# ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး
# ဘဝဖြစ်တော်စဉ်

ဦးအောင်မွန် (မြတ်ဆုမွန်)
ရေးဖွဲ့ပူဇော်သည်



# ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ ဘဝဖြစ်တော်စဉ်

ဦးအောင်မွန်(မြတ်ဆုမွန်)
ရေးဖွဲ့ပူဇော်သည်




မြတ်ဆုမွန်စာပေ
အမှတ်(၇၆/၈၀)၊ ဗညားဒလလမ်း၊ သိမ်ဖြူကွင်းအရှေ့၊
မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။
ဖုန်း-၀၉၈၀-၃၁၇၂၄၊ ၀၁-၇၂၄၀၂၈၊ ၀၁-၄၄၁၁၄၃၄
E-mail: myatsumon@myanmar.com.mm

စာတည်းပုဂ္ဂိုလ်

ဆရာဦးအောင်ထွတ် (ရန်ကုန်တက္ကသိုလ်)

စီစဉ်သူ

ဒေါ်သက်သက်ခိုင် (မြတ်ဆုမွန်)

အတွင်းသရုပ်ဖော်များ

ဦးမြင့်စိုး (မြန်မာ့အလင်း)

ကွန်ပျူတာစာစီ

ဇော်လင်းသက်၊ စိုးစိုးလှိုင်၊ လှမြင့်

စာအုပ်ချုပ်

မြတ်ဆုမွန်စာအုပ်ချုပ်လုပ်ငန်း

ပုံနှိပ်မှတ်တမ်း

၂၀၀၇-ခုနှစ်၊ ဒီဇင်ဘာလ

ပထမအကြိမ်

အုပ်ရေ-၁၀၀၀

တန်ဖိုး -၁၂၀၀ ကျပ်

ရန်ကုန်မြို့၊ ကမ္ဘာအေး၊ သာသနာရေးဝန်ကြီးဌာန၊
သာသနာရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးဦးဇာနည်ဝင်း
(မှတ်ပုံတင်အမှတ်-၀၃၈၄၃/၀၂၄၀၅) က ထုတ်ဝေ၍
သာသနာရေးဦးစီးဌာနအတွက် ဦးရှိန်ဘီး (မှတ်ပုံတင်အမှတ်-၀၆၇၅၉)
ဝင်းလိုက်မိတ်အော့ဖ်ဆက်၊ အမှတ်-၈၇၊ ကျွန်းရွှေမြိုင်လမ်း၊ သုဝဏ္ဏမြို့
သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့ကပုံနှိပ်သည်။



လယ်တီဆရာတော်ဘုရားကြီး

# မာတိကာ

## အခန်း (၃) စာချဘုန်းကြီးဘဝ



## အခန်း (၄) သင်္ဂြိုဟ်ဦးဝိုင်းကျောင်းဘုန်းကြီးဘဝ

## အခန်း (၅) လယ်တီတောရကျောင်းဆရာတော်ဘဝ (သက္ကရာဇ် ၁၂၄၈–သက္ကရာဇ် ၁၂၆၁) 

## အခန်း (၆) ကျမ်းပြုအကျော် တောရပျော်ဆရာတော်ဘဝ

## (သက္ကရာဇ် ၁၂၆၂–သက္ကရာဇ် ၁၂၆၅) ၄၆၅–၅၁၈

**အခန်း (၇) မဟာဓမ္မကထိက မဟာဂန္ထ ကာရက ပြည်တွင်းပြည်ပသာသနာပြုဆရာတော်ကြီးဘဝ (သက္ကရာဇ် ၁၂၆၆–သက္ကရာဇ် ၁၂၇၈)**

## အခန်း (၈) အဂ္ဂမဟာပဏ္ဍိတနှင့် ဒီလစ်ဘွဲ့ရဆရာတော်ဘုရားကြီးဘဝ (သက္ကရာဇ် ၁၂၇၇–သက္ကရာဇ် ၁၂၈၅) 

## အခန်း (၉) လယ်တီဆရာတော်ဘုရားကြီး၏ အန္တိမဈာပနပူဇော်ပွဲ

## (သက္ကရာဇ် ၁၂၈၅–ခုနှစ်) ၈၈၇–၉၁၀

နိုင်ငံတော်သံဃမဟာနာယကအဖွဲ့ဝင်

မန္တလေးမြို့၊ မဟာဝိသုဒ္ဓါရုံတိုက်သစ်၊ သူဌေးတန်းကျောင်းဆရာတော်

အဂ္ဂမဟာပဏ္ဍိတ ဘဒ္ဒန္တ မာနိတသိရီဘိဝံသ ၏

# လယ်တီဆရာတော်ဘုရားကြီးပြန်ကြွတော်မူလာပြီ ဖူးမြော်ကြပါကုန်

ရဟန်းတစ်ပါး, ဆရာတော်တစ်ပါး၏ ဘဝအဖြစ်တော်စဉ်ကို ဖော်ပြသည့် ထေရုပ္ပတ္တိကျမ်းစာတစ်ခု၌–

၁။ အကြောင်းအရာ မှန်ခြင်း၊

၂။ အကြောင်းအရာ ပြည့်စုံခြင်း၊

၃။ ရေးသားတင်ပြပုံ ရှင်းလင်းကောင်းမွန်ခြင်းဟူသော အချက်သုံးချက်နှင့်ပြည့်စုံမှ ထေရုပ္ပတ္တိကောင်းဟု ဆိုထိုက်၏။

ထိုအချက် သုံးချက်တို့တွင် အမှတ် (၁) အရ အကြောင်းအရာ မှန်ကန်မှုမရှိဘဲ ရေးသားတင်ပြထားလျှင် ထိုထေရုပ္ပတ္တိသည် လုပ်ကြံထေရုပ္ပတ္တိသာဖြစ်၏။ အလိုမရှိအပ်၊ မမြတ်နိုးအပ်။ အမှတ် (၂) အရ အကြောင်းအရာ ပြည့်စုံမှုမရှိပါက ထိုထေရုပ္ပတ္တိသည် အပရိပုဏ္ဏထေရုပ္ပတ္တိ၊ တစ်နည်း ထေရုပ္ပတ္တိအကျဉ်းသာဖြစ်၍ နှစ်သက်ဖွယ်ဖြစ်သော်လည်း အားရဖွယ်မရှိပေ။ အမှတ် (၃) အရ အကြောင်းအရာမှန်ကန်ပြီးပြည့်စုံပါသော်လည်း ရေးသားတင်ပြပုံ မရှင်းလင်း မပီပြင်ပါက ထေရုပ္ပတ္တိကောင်းမဟုတ်၊ ထေရုပ္ပတ္တိမှတ်စုသာဖြစ်၏။

ယခု သင်တို့လက်ထဲ၌ရှိနေသည့် 'ကျေးဖူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ ဘဝဖြစ်တော်စဉ်' ဟု အမည်ပေးထားသော ထေရုပ္ပတ္တိမဟာသည် ဆိုခဲ့ပြီးသော အင်္ဂါရပ်များနှင့် ပြည့်စုံသဖြင့် ထေရုပ္ပတ္တိကောင်းဟုဆိုအပ်၏။

အနည်းငယ်ဆိုဦးအံ့။ ဤထေရုပ္ပတ္တိမဟာ၌ ရေးသားတင်ပြထားသော လယ်တီဆရာတော်ဘုရားကြီး၏ အကြောင်းအရာ အဖြစ်တော်စဉ်တို့သည် အကြောင်းအရာမှန်, အဖြစ်မှန်မဟုတ်ဘဲ ကြည်ညိုစိတ်ဖြင့် မွန်းထားသော, အထင်ဖြင့် ချဲ့ထွင်ရေးသားထားသော အကြောင်းအရာများ မဟုတ်ကြ။ အထပ်ထပ်လေ့လာ သုတေသနပြုထားသော အကြောင်းအရာမှန်များသာဖြစ်သည်။

ထင်ရှားစေအံ့။ ဆရာတော်ဘုရားကြီး၏ ဘွဲ့မည်တော်ကို ဖော်ပြရာ၌ 'ရှင်ဉာဏ'ဟူ၍လည်းကောင်း၊ 'ရှင်ဉာဏဝံသ' ဟူ၍လည်းကောင်း၊ 'ရှင်ဉာဏာဘိဝံသ' ဟူ၍လည်းကောင်း၊

'ရှင်ဥတ္တမဇ' ဟူ၍လည်းကောင်း အမျိုးမျိုးဖော်ပြနေကြရာ ဤကျမ်းဆရာက 'ရှင်ဥတ္တမဇ' ဟူသောအမည်တော်ကိုသာ သုတေသနပြုကာ အတည်ပြုထားပေသည်။

ဆရာတော်ဘုရားကြီး၏ ဘဝအဖြစ်တော်စဉ်ကို စေ့စေ့စပ်စပ်လေ့လာလျှင်လည်း 'ရှင်ဥတ္တမဇ' ဟူသောအမည်နှင့်သာလျော်ကြောင်း သိမြင်နိုင်သည်။ ထို့အတူ အခြားအခြားတင်ပြထားသမျှသော အကြောင်းအရာတို့သည်လည်း လုပ်ကြံချဲ့ထွင်ထားသော အကြောင်းအရာများ မဟုတ်ကြ၊ အထပ်ထပ်လေ့လာ သုတေသနပြုထားသော အကြောင်းအရာမှန်များသာ ဖြစ်သည်။

ထို့ပြင် လယ်တီဆရာတော်ဘုရားကြီးသည် ၁၂၀၈-ခုနှစ်၊ နတ်တော်လတွင် ဖွားမြင်တော်မူပြီး ၁၂၈၅-ခုနှစ်၊ ပထမဝါဆိုလပြည့်နေ့တွင် ဘဝခရီးကိုအပြီးသတ်တော်မူခဲ့ရာ လူ့ဘဝတွင် နှစ်ပေါင်း ၇၆-နှစ်၊ ၇-လကြာ နေတော်မူခဲ့သည်။ ထို ၇၆-နှစ်၊ ၇-လအတွင်း ဆရာတော်ဘုရားကြီးလှုပ်ရှားဆောင်ရွက်ခဲ့သည့် မှတ်တမ်းတင်ထိုက်သော အကြောင်းအရာတို့တွင် 'အဘယ် အကြောင်းအရာ ကျန်ရစ်ပါသေးသည်၊ ဤစာအုပ်၌ မပါသေးပါ' ဟု မပြောနိုင်အောင် စုံလှ၏။ ထို့ကြောင့် အမှတ် (၂) အင်္ဂါနှင့်လည်း ပြည့်စုံသည်။

ထို့ပြင် အတ္ထုပ္ပတ္တိစာပေကို ရေးသားပြုစုရာ၌-

၁။ လှုပ်ရှားမှုကိုပေါ်လွင်စေသည့် သဘာဝဝုတ္တိနည်း၊

၂။ ရသကိုဖော်ဆောင်သည့် ရသီအလင်္ကာနည်း-ဟု နည်းနှစ်မျိုးရှိရာ 'ခင်မြင့်ကြီးဝတ္ထု' ဟု အမည်ပေးထားသော လယ်တီပဏ္ဍိတဦးမောင်ကြီး၏အတ္ထုပ္ပတ္တိသည် ရသကိုဖော်ဆောင်သည့် ရသီအလင်္ကာနည်းဖြင့် ရေးဖွဲ့ပြုစုထားသော အတ္ထုပ္ပတ္တိအမျိုးအစားဖြစ်သည်၊ ဤကျမ်းဆရာကား လယ်တီဆရာတော်ဘုရားကြီး၏ ဘဝတစ်သက်တာလှုပ်ရှားမှုကို သဘာဝဝုတ္တိအလင်္ကာနည်းဖြင့် အနုစိပ်ဖော်ပြရေးဖွဲ့ထားသဖြင့် လယ်တီဆရာတော်ဘုရားကြီး ရှင်ပြန်ထမြောက်လာသကဲ့သို့ အသက်ဝင်လှုပ်ရှားလာသည်။ ထို့ကြောင့် အမှတ် (၃) အင်္ဂါနှင့်လည်း ပြည့်စုံသည်။

ဤသို့လျှင် ဤထေရုပ္ပတ္တိမဟာသည် ထေရုပ္ပတ္တိအရှင်မဟာထေရ်မြတ်ကြီး၏ ဘဝတစ်သက်တာလှုပ်ရှားဆောင်ရွက်ခဲ့သမျှကို အထောက်အထားခိုင်ခိုင်မာမာဖြင့် ရှာဖွေစုစည်းတင်ပြထားသော စံပြသုတေသနထေရုပ္ပတ္တိမဟာဖြစ်ကြောင်း ထင်ရှားလေတော့သတည်း။

## ထေရုပ္ပတ္တိအရှင်နှင့် ထေရုပ္ပတ္တိပြုစုသူ

ဤထေရုပ္ပတ္တိကျမ်း၏အရှင်ကား ကမ္ဘာကျော်လယ်တီဆရာတော်ဘုရားကြီးဖြစ်၍၊ ထေရုပ္ပတ္တိကျမ်းကို ရေးသားပြုစုသူမှာ ဦးအောင်မွန် (မြတ်ဆုမွန်) ဖြစ်ကြောင်း သိကြပြီးဖြစ်သည်။ ထိုသို့ သိကြပြီးဖြစ်၍ အထူးဖော်ပြဖွယ်မလိုဟု ထင်မှတ်ဖွယ်ရှိသော်လည်း လယ်တီဆရာတော်ကြီးသည် မည်သို့သောဆရာတော်ကြီးဖြစ်သည်ကိုလည်းကောင်း၊ ကျမ်းပြုဆရာသည် ဤကျမ်းစာအတွက် မည်သို့ဆောင်ရွက်ခဲ့ရသည်ကိုလည်းကောင်း အနည်းငယ်ဖော်ပြလိုပါသည်။

လယ်တီဆရာတော်ကြီး၏ ဘွဲ့မည်တော်မှာ ဆိုခဲ့ပြီးအတိုင်း အရှင်ဉာဏ, အရှင်ဉာဏဝံသ, အရှင်ဉာဏာဘိဝံသ, အရှင်ဉာဏဓဇ–ဟု အမျိုးမျိုးဖော်ပြကြရာမှ ‘အရှင်ဉာဏဓဇ’ ဟူသော အမည်တော်သည်သာ ဖြစ်သင့်သည်ကို အနည်းငယ်ထောက်ပြလိုပါသည်။

နိကာယ် ၅–ရပ်ရှိသည်တွင် မဇ္ဈိမနိကာယ်အဝင်အပါ မူလပဏ္ဏာသပါဠိတော်၌ အစဆုံး သုတ်မှာ မူလပရိယာယသုတ်ဖြစ်သည်။ ထိုမူလပရိယာယသုတ်၏အဓိပ္ပာယ်ကို မည်သည့် ဆရာတော်ကမှ အဓိပ္ပာယ်ဖွင့်ဆိုခြင်း, ကိုးကားရေးသားခြင်းပြုသည်ကို မတွေ့ရ။ ဝိပဿနာ ဉာဏ်အရာ၌ ဟောအပ်သော ထိုသုတ်တော်ကို မည်သည့်ကမ္မဋ္ဌာန်းဆရာကမှ ထုတ်ဖော် ကိုးကားဟောကြားဖွင့်ဆိုသည်ကို မပြုကြ။ မည်သည့်ဓမ္မကထိကဆရာတော်ကမှ ရွတ်ဆို ဟောပြသည်,စီဒီခွေသွင်းသည်ဟု မကြားရပေ။ ထိုသုတ်တော်၌ ပထဝီဓာတ်မှအစ၍ပြု၍ နိဗ္ဗာန် အဆုံးရှိသောတရားတို့ကို ပုထုဇဉ်တို့မြင်ပုံ, သေက္ခပုဂ္ဂိုလ်တို့မြင်ပုံ, ရဟန္တာအရှင်တို့မြင်ပုံဟု အသီးသီးခွဲခြားဟောပြထား၏။

ထိုသုတ်တော်၌ အစဆုံး ပထဝီဓာတ်ကို ပုထုဇဉ်တို့မြင်ပုံကို–

> ပထဝိံ ပထဝိတော သဉ္ဇာနာတိ၊ ပထဝိံ ပထဝိတော သညတွာ ပထဝိံ မညတိ၊ ပထဝိယာ မညတိ၊ ပထဝိတော မညတိ၊ ပထဝိံ မေတိ မညတိ၊ ပထဝိံ အဘိနန္ဒတိ။ တံ ကိဿ ဟေတု၊ အပရိညာတံ တဿာတိ ဝဒါမိ။ (မ၊ ၁။ ၁။)
>
> မြေကို မြေဟုမှတ်၏၊ မြေကို မြေဟုမှတ်၍ မြေကို ကြံ၏၊ မြေ၌ ကြံ၏၊ မြေမှ ကြံ၏၊ မြေကို ငါ့ဟာဟု ကြံ၏၊ မြေကို ရှေးရှုနှစ်သက်၏။ ထိုသို့ဖြစ်ခြင်းသည် အဘယ့်ကြောင့်နည်း၊ ထိုသူသည် (ထိုမြေကို) ပိုင်းခြား၍မသိသောကြောင့်တည်းဟု ငါဟော၏–ဟု ဟောတော်မူသည်။

ဤကား ‘ပထဝီ–မြေ’ ကို ပုထုဇဉ်တို့ရှုမြင်ပုံပြသောစကား ဖြစ်၏။ ထိုပါဠိတော်၏အဓိပ္ပာယ်ကို အသင်ဉာဏ်ဝင်စားပြီး အဓိပ္ပာယ်ဖော်ကြည့်ပါ။ နိဿယ၏ အကူအညီကိုယူပါ၊ အဋ္ဌကထာကို ကြည့်ပါ၊ ဋီကာကိုလည်းကြည့်ပါ။ ဤသို့ ကြည့်၍ ကြံ၍ ဗုဒ္ဓ အလိုတော်ကျအဓိပ္ပာယ်ဖော်နိုင်လျှင် သင်သည် လယ်တီဆရာတော်ကြီးနှင့် ဉာဏ်ရည်တူသူလို့ ဂုဏ်ပြုထိုက်သူဖြစ်သည်။

အမှန် အားဖြင့် ဗုဒ္ဓအလိုတော်ကျ အဓိပ္ပာယ်ဖော်နိုင်ရန်ခဲယဉ်းလှ၏။ ထို့ကြောင့် မည်သူကမျှ မတို့ခဲ့ကြခြင်းဖြစ်၏။ ဤသို့ မည်သူကမျှ မတို့ရဲသည့်သုတ်တော်ကြီး၏ ပထဝီဓာတ်တစ်ခုမျှကို လယ်တီဆရာတော်ကြီးက အခြေအမြစ်မှကိုင်ပြီး ရှင်းပြထားသည်ကို သာသနဝိသောဓနီကျမ်း၊ ဒုတိယအုပ်မှာ တွေ့မြင်နိုင်သည်။ ဤအချက်တစ်ခုနှင့်ပင် လယ်တီဆရာတော်ကြီး၏ဘွဲ့တော်သည် အရှင်ဉာဏလည်းမဟုတ်၊ အရှင်ဉာဏဝံသလည်းမဟုတ်၊ အရှင်ဉာဏာဘိဝံသလည်းမဟုတ်၊ ‘ဉာဏ်အရည်အသွေးမှာ တံခွန်ထူသူ’ ဟု အဓိပ္ပာယ်ရပြီး မဟာဆန်သည့် ‘အရှင်ဉာဏဓဇ’ သာဖြစ်သည်ဟု သိနိုင်သည်။

နောက်တစ်ခုကြည့်ရအောင်–

'ဗုဒ္ဓဂုဏော အနန္တော၊ ဓမ္မဂုဏော အနန္တော၊ သံဃဂုဏော အနန္တော၊ မာတာပိတုဂုဏော အနန္တော၊ အာစရိယဂုဏော အနန္တော'-

ဆိုနေကြရာ ဤအနန္တငါးပါးအရာ၌ဆိုသည့် 'ဗုဒ္ဓဂုဏော အနန္တော' နှင့် အခြားအရာတို့မှာလာသည့် 'ဗုဒ္ဓဂုဏ အနန္တ'တို့ အဓိပ္ပာယ်တူကြသလား၊ အမိ,အဖ,ဆရာတို့နှင့် တစ်တန်းတည်းပြသည့် ဗုဒ္ဓ၏ဂုဏအနန္တဟာ သီလစသော ဂုဏ်တော်အနန္တလား၊ ပြုခဲ့ဖူးသည့် ကျေးဇူးတော်ကို ရည်ညွှန်းသည့် ကျေးဇူးတော်အနန္တလား၊ သင်ဘယ်လိုထင်သလဲ?။ အကယ်၍ 'ဗုဒ္ဓဂုဏော အနန္တော' မှာလာသည့် 'အနန္တ'ဟာ ဂုဏအနန္တပါဟု ယူချေသော် ဗုဒ္ဓ၏ သီလ စသော ဂုဏ်တော်အဆင့်အတန်းသည် အမိအဖဆရာတို့၏ ဂုဏ်တော်အဆင့်လောက်သာရှိသည်ဟု ဆိုရာရောက်သည် မဟုတ်လော၊ သင်ဘယ်လိုယူမှာလဲ?။ လယ်တီဆရာတော်ဘုရားကြီး အရှင်ဉာဏဓဇကတော့ ဤကျမ်းမှာ ရှင်းပြထားတယ်။

ဤကား ပိဋကတ်စာပေနယ်၌ နှံ့စပ်ပေါက်ရောက်သူအရှင်တို့အား ထေရုပ္ပတ္တိ အရှင် လယ်တီဆရာတော်ကြီးဆိုတာ ဒီလိုအရှင်မြတ်ကြီးပါလားဟုသိစေရန် အမြွက်မျှ ဆိုလိုက်ခြင်းဖြစ်၏။

ဤထေရုပ္ပတ္တိမဟာကို ရေးဖွဲ့ပူဇော်သူမှာ ဦးအောင်မွန် (မြတ်ဆုမွန်) ဖြစ်သည်။ သူနှင့် စာရေးသူ စတင်တွေ့ဆုံရသည်မှာ ၁၃၃၅-ခုနှစ်၊ ၁၃၃၆-ခုနှစ်ခန့်ကဖြစ်၏။ ထိုစဉ်က စာရေးသူသည် ဝိုင်-အမ်-ဘီ-အေအသင်းကြီးနှင့်ဆက်သွယ်ပြီး မန္တလေးတိုင်း၊ မတ္တရာမြို့နယ် စကျင်ရွာ, ကောက်ရိုးပုံရွာ, ပတ်လည်အင်းရွာတို့၌လည်းကောင်း၊ စစ်ကိုင်းတိုင်း၊ စစ်ကိုင်း မြို့နယ် စံကင်းဆရာတော်ကြီး, ဝါဆိုဆရာတော်ကြီးတို့၏ဇာတိ လင်းယဉ်, ရှမ်းကုန်းရွာတို့နှင့် ကန်ကြီးကုန်းရွာတို့၌လည်းကောင်း မင်္ဂလာအသင်းများဖွဲ့၍ မင်္ဂလာသင်တန်းများပို့ချခြင်း၊ ဆုနှင်းသဘင်များနှင့်တွဲ၍ စာပေဟောပြောပွဲ, စကားရည်လုပွဲများပြုလုပ်ပေးနေချိန်ဖြစ်သည်။

တစ်ခုသော နယုန်လတွင် ကန်ကြီးကုန်းရွာ၌ မင်္ဂလာဆုနှင်းသဘင်နှင့်တွဲ၍ စာပေဟောပြောပွဲပြုလုပ်ရန်အတွက် စာရေးဆရာ သမိုင်းဆရာကြီး ဦးမောင်မောင်တင် (မဟာဝိဇ္ဇာ) နှင့် မန္တလေးတက္ကသိုလ်မှ ကျောင်းသားများကိုဖိတ်ခေါ်ရာတွင် ယခုရန်ကုန်သမိုင်းသုတေသနဌာန (မြန်မာ့သမိုင်းအဖွဲ့) ညွှန်ကြားရေးမှူးများဖြစ်ကြသော မောင်ကျော်ငြိမ်း, မောင်ဘသောင်းတို့နှင့် မောင်အောင်မွန်တို့ လိုက်ပါလာကြသည်။ မောင်အောင်မွန်သည် ထိုစဉ်က မန္တလေးမြို့ စာရေးဆရာကြီးများဖြစ်ကြသော လူထုဦးလှ ဒေါ်မာတို့တိုက်မှာနေ၍ မန္တလေးတက္ကသိုလ် အရှေ့တိုင်းပညာ (ပါဠိ) ဌာနတွင် ပညာသင်ယူနေသူဖြစ်သည်။

ထိုနှစ် ကန်ကြီးကုန်းရွာ မင်္ဂလာဆုနှင်းသဘင်နှင့် ဟောပြောပွဲသို့ မန္တလေးဘူတာကြီးမှ ရထားဖြင့်သွားကြရာ ရထားပေါ်တွင် မောင်အောင်မွန်က အတ္ထုပ္ပတ္တိစာပေကို စိတ်ဝင်စားကြောင်း၊ လယ်တီဆရာတော်ကြီး၏ အတ္ထုပ္ပတ္တိကိုလေ့လာနေကြောင်းလျှောက်ထားသည်ကို မှတ်မိနေ၏။ ထိုအချိန်မှစ၍ လယ်တီဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိကို လေ့လာစုဆောင်း

ဆောင်ရွက်ခဲ့ရာ ယခုနှစ်ပေါင်း ၃၀ ကျော်မှ ဤစာအုပ်ပေါ်လာခြင်းဖြစ်၏။ ဤမျှဖြင့် ကျမ်းပြုသူ၏ အားထုတ်မှုဝီရိယဖွဲ့ကို အကဲခတ်မိကြရာ၏။

လယ်တီဆရာတော်ဘုရားကြီးတို့လို ပရိယတ်,ပဋိပတ်စွယ်စုံ ကမ္ဘာကျော်ဆရာတော်ကြီးများ၏ထေရုပ္ပတ္တိကို ရေးသားတင်ပြနိုင်ရန်အတွက် အတ္ထုပ္ပတ္တိဆိုင်ရာ အကြောင်းအရာများ ပြည့်စုံအောင် စုဆောင်းနိုင်ရုံဖြင့် မလုံလောက်ပေ၊ မြန်မာစာရေးသားရာ၌ မြန်မာစကားဝါကျဖွဲ့ထုံး မှန်ကန်စွာရေးဖွဲ့နိုင်ရမည်။ 'အား'နှင့်'ကို'မှ မကွဲ၊ 'မှ'နှင့်'သည်'မှ မှန်အောင် မသုံးတတ်သော စာရေးဆရာမျိုးမဖြစ်သင့်။ ထို့ပြင် ရဟန်းစာရေးဆရာဖြစ်ပါက ဓမ္မာစရိယဘွဲ့ရဖြစ်သင့်၏။ လူစာရေးဆရာဖြစ်ပါက ဓမ္မာစရိယဘွဲ့တံဆိပ်ရ ရဟန်းများလောက် ပါဠိဘာသာရပ်၌ တီးမိခေါက်မိရှိရမည်။ ဤမျှဖြင့်လည်း မလုံလောက်သေး၊ ပါဠိဘာသာ၏ မိတ်ဖက်ဖြစ်သော သက္ကတဘာသာကိုလည်း လေ့လာဖူးသူဖြစ်ရမည်။ ဤမျှလောက်မှ အရည်အချင်းမရှိလျှင် မရေးသင့်။ ရေးပါကလည်း ဆရာတော်ကြီး၏ ဘဝအဖြစ်တော်စဉ်ကို ဟုတ်မှန်သောအတိုင်း ပေါ်လွင်လာအောင်၊ ဆရာတော်ကြီး၏အလိုရည်မှန်းချက်နှင့် ကိုက်ညီအောင် ရေးနိုင်လိမ့်မည်မဟုတ်ပေ။

ယခုအခါ စာရေးဆရာ မောင်အောင်မွန် (မြတ်ဆုမွန်) က လယ်တီဆရာတော်ကြီး၏ မြန်မာစာပေဆိုင်ရာအကြောင်းအရာ, ပါဠိစာပေဆိုင်ရာအကြောင်းအရာ, သက္ကတဘာသာနှင့် စပ်နွယ် သောအကြောင်းအရာ, အဘိဓမ္မာဆိုင်ရာအကြောင်းအရာ, သဒ္ဒါဗျာကရဏ်းကျမ်းများဆိုင်ရာအကြောင်းအရာ, ဓမ္မသဘာဝဆိုင်ရာအကြောင်းအရာတို့ကို ဟာကွက်လိုကွက်မရှိ တိတိပပ ရေးဖွဲ့ထားသဖြင့် လယ်တီဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိကျမ်းစာသည် လယ်တီဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိကျမ်းစာပီပီ ခံ့ခံ့ညားညား ပေါ်ထွက်လာခဲ့ပေပြီ။

သို့သော် ဤထေရုပ္ပတ္တိကျမ်းမဟာသည် ကောင်းသလား? ညံ့သလား? အဆင့်အတန်း မြင့်သလား? နိမ့်သလား?ဟု သုံးသပ်ရာ၌ အဖြေမှာ စာရှုသူ၏အပေါ်၌ တည်မှီ၍ပေါ်ထွက်လာပေလိမ့်မည်။

### အဖြေသုံးမျိုး

— မြန်မာစာ, ပါဠိပိဋကတ်အရာ အခြေခံမရှိသူ ဓမ္မသဘာဝနားမလည်သူတို့အနေဖြင့် ဤကျမ်းစာသည် ပျင်းရိငြီးငွေ့ဖွယ်ကျမ်းစာဖြစ်ပေလိမ့်မည်။

— မြန်မာစာအရေးအသား ပိဋကတ်စာပေဆိုင်ရာ အခြေခံရှိ၍ ဓမ္မမျက်စိ အထိုက်အလျောက်ရှိကြသူတို့အတွက် ဤကျမ်းစာသည် လက်မှမချချင်လောက်အောင် ဆွဲဆောင်သော ကျမ်းစာဖြစ်ပေလိမ့်မည်။

— မြန်မာစာပေဆိုင်ရာ အသိဉာဏ်ရှိ အရေးအသားပါကျွမ်းကျင်သူ, ပိဋကတ်ဆိုင်ရာ ဓမ္မအနှစ်ကိုပါမြင်တတ်ပြီး အဘိဓမ္မာသဘာဝဆိုင်ရာသဘောငုံမိသူဖြစ်ကာ သက္ကတဘာသာကိုပါ လေ့လာဖူးသူဖြစ်မူ အတ္ထုပ္ပတ္တိ၏အရှင် လယ်တီဆရာတော်ဘုရားကြီးကိုရော အတ္ထုပ္ပတ္တိ ရေးသားပြုစုသူကိုပါ အံ့သြချီးမွမ်းမိကြပေလိမ့်မည်။

နိဂုံး

အချုပ်အားဖြင့် စာရေးဆရာ မောင်အောင်မွန် (မြတ်ဆုမွန်) ၏ ကြိုးစားမှု,အဖွဲ့အစည်းကောင်းမှု ကြောင့် ကျေးဖူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် သက်တော်ရှိစဉ်ကကဲ့သို့ပင် ယခုအခါ မြန်မာပြည်အရပ်ရပ်သို့ ကြွရောက်သာသနာပြုနေသည်ကို သင်တို့ကိုယ်တိုင် မြင်တွေ့နေကြရပြီ မဟုတ်လော။ ထို့ကြောင့် စာရေးသူအနေဖြင့် 'ကျေးဖူးရှင်လယ်တီဆရာတော်ဘုရားကြီး ပြန်ကြွတော်မူလာပြီ၊ ဖူးမြော်ကြပါကုန်' ဟုသာ နှိုးဆော်လိုပါသတည်း။ ။

ဘုန်းကြီးဦးမာနိတသိရီဘိဝံသ
မဟာနာယကကျောင်းတော်
၁၃၆၉–ခု၊ နတ်တော်လပြည့်ကျော် ၄ ရက်။

စစ်ကိုင်းမြို့၊ သီဟဂူကမ္ဘာ့ဗုဒ္ဓတက္ကသိုလ်နှင့်
ရန်ကုန်မြို့၊ အပြည်ပြည်ဆိုင်ရာထေရဝါဒသာသနာပြုတက္ကသိုလ်တို့၏ ပါမောက္ခချုပ်ဆရာတော်
စစ်ကိုင်းမြို့၊ မဟာသုဗောဓာရုံကျောင်းတိုက်၊ တိုက်အုပ်ဆရာတော်
အဂ္ဂမဟာပဏ္ဍိတ၊ အဂ္ဂမဟာဂန္ထဝါစကပဏ္ဍိတ၊ သ စ အ ဓမ္မာစရိယ၊ ပါဠိပါရဂူ

ဘဒ္ဒန္တ နန္ဒမာလာဘိဝံသ M. A., Ph. D. ၏

# ဤစာအုပ်ကိုဖတ်ကြည့်ပါ

၂၀၀၇–ခုနှစ်၊ နိုဝင်ဘာလ (၂၇)ရက်နေ့တွင် ဖြစ်၏။

ဦးအောင်မွန်(မြတ်ဆုမွန်)ထံမှ သူကိုယ်တိုင် ရေးဖွဲ့ပြုစုအပ်သော 'ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီး၏ ဘဝဖြစ်တော်စဉ်' အမည်ရှိ ဤစာအုပ်ကို ကွန်ပျူတာစာမူအဆင့်တွင် လက်ခံရရှိပါသည်။

ဤစာအုပ်ကိုတွေ့မြင်ရသည်နှင့်တစ်ပြိုင်နက်တည်း လွန်ခဲ့သည့် နှစ် ၃၀ ကျော် (၁၉၇၄–ခုနှစ်ဝန်းကျင်)ကာလမှ အတိတ်၏ပုံရိပ်များသည် မိမိ၏စိတ်အစဉ်တွင် ထင်ဟပ်ပေါ်လွင်လာခဲ့ပါသည်။

ဘုန်းကြီးဦးမာနိတသီရိ(ကထိကရဟန်း)နှင့် မိမိတို့နှစ်ဦးသား ပူးတွဲလျက် 'စံကင်းဆရာတော်ဂုရုပ္ပတ္တိကထာ' ကျမ်းကို ပြုစုရေးသားပြီးနောက် ပဌမရွှေကျင်ဆရာတော်ဘုရားကြီးနှင့် ပဌမမဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးနှစ်ပါးတို့၏ ဘဝဖြစ်တော်စဉ်များကို ရေးသားပြုစုရန် စိတ်ပါဝင်စား အားတက်သရောရှာဖွေစုဆောင်းနေသည့်အချိန် လယ်တီဆရာတော်ဘုရားကြီး၏ ဘဝဇာတ်ကြောင်းစုဆောင်းရန် စုံစမ်းမေးမြန်းနေသူ မောင်အောင်မွန် (မန္တလေးတက္ကသိုလ်၊ ပါဠိဌာနကျောင်းသား) နှင့် စတင်ဆုံဆည်းမိကြပါသည်။

တွေ့ဆုံကြစဉ် အဌုပ္ပတ္တိစာပေအကြောင်းကို များစွာပြောဖြစ်ကြရုံမျှမက အတွေ့အကြုံစာပေဗဟုသုတဖလှယ်ခဲ့ကြပါသည်။ မဟာဝိသုဒ္ဓါရုံဆရာတော်အကြောင်းကို ဘုန်းကြီးဦးမာနိတသီရိ ရေး၍၊ ရွှေကျင်ဆရာတော်အကြောင်းကို မိမိကရေးရန်နှင့် လယ်တီဆရာတော်အကြောင်းကို မောင်အောင်မွန်ကရေးရန် စိတ်အားထက်သန်ခဲ့ကြပါသည်။

ထိုအချိန်မှစ၍ (၁၀)နှစ်တာကာလအတွင်း ဘုန်းကြီးဦးမာနိတသီရိအနေဖြင့် မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီး၏ဘဝစာပေအထွေထွေကို အတော်ကလေး စုဆောင်းရမိထားသကဲ့သို့

မိမိအနေဖြင့်လည်း ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဘဝသာသနာစာပေရေးရာ ပုံရိပ်လွှာများကို ဝိုးတဝါးရှာဖွေတွေ့ရှိခဲ့ပါသည်။ ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဘဝဇာတ်ကြောင်းကို မာတိကာစာမြောင်းသွယ်ကာ စတင်ပြုစုနိုင်ခဲ့ပါသည်။

သို့သော် မိမိအဖို့ ဘဝတစ်ကွေ့ အပြောင်းအရွှေ့ဖြစ်ပေါ်လာသဖြင့် ပြုစုရေးသားမှုလုပ်ငန်း ရပ်နားသွားခဲ့ရပါသည်။ ၁၉၈၆–ခုနှစ်တွင် ဘာသန္တရနှင့် အထွေထွေပဟုသုတရယူရန် အိန္ဒိယနှင့် သီရိလင်္ကာနိုင်ငံတို့သို့ ထွက်ခွာသွား ခဲ့ခြင်းဖြစ်ပါသည်။

ကိစ္စတစ်ခုဆောင်ရွက်နိုင်ခြင်းသည် အကြောင်းညီညွတ်မှု (ပစ္စယသာမဂ္ဂီ) တွင်တည်နေ၏။ ရှေးကလူကြီးများစကားပြောသည့်အခါ 'အကြောင်းညီညွတ်လျှင်' ဆိုသည့်စကားကို ထည့်သွင်းပြောကြားလေ့ရှိပါသည်။ ပိဋကတ်စာပေ၌လည်း အနာဂတ်ကိစ္စ ပဋိညာဉ်ပေးတိုင်း 'ကာလဉ္စ သမယဉ္စ ဉပါဒါယ' (အချိန်အခါ အကြောင်းအခွင့်သင့်လျှင်) ဆိုသည့်စကားရပ်ကို ထည့်သွင်းပြောကြားလေ့ရှိသည်ကို တွေ့ရပါသည်။

မိမိအဖို့ ရွှေကျင်ဆရာတော်ကြီး၏အတ္ထုပ္ပတ္တိပြုစုရန် အတော်အသင့်စုမိဆောင်းမိပြီးဖြစ်သော်လည်း အကြောင်းမညီညွတ်တော့ပါ။ စုဆောင်းပြီးသမျှ ဘုန်းကြီးဦးမာနိတသီရိထံ လွှဲပြောင်းပေးလိုက်ပါသည်။ စာပေရေးသားပြုစုရာ၌ကျွမ်းကျင်သည့် ဘုန်းကြီးဦးမာနိတသီရိသည် ရွှေကျင်ဂိုဏ်း ရာပြည့်အမှတ်တရအဖြစ် သက္ကရာဇ် ၁၃၅၅ (၁၉၉၃–ခုနှစ်)တွင် 'ပထမရွှေကျင်ဆရာတော်' ဟူသောအမည်ဖြင့် ရွှေကျင်ဆရာတော်ဘုရားကြီး၏ဘဝနှင့်စာပေကို ပြုစုထုတ်ဝေနိုင်ခဲ့ပါသည်။

ဤသို့ ရွှေကျင်နှင့် မဟာဝိသုဒ္ဓါရုံအတ္ထုပ္ပတ္တိနှစ်စောင် အကောင်အထည်ဖော်ဆောင်နိုင်ခဲ့ပြီး ဖြစ်သော်လည်း လယ်တီဆရာတော်၏အတ္ထုပ္ပတ္တိမှာ ထွက်ပေါ်လာခြင်းမရှိသေးပါ။ ကိုအောင်မွန်နှင့် ဆုံမိတိုင်းလိုလို 'လယ်တီဆရာတော် ဘယ်ရောက်နေတုန်း' ဟု မေးမိနေခဲ့ကြပါသည်။

၂၀၀၇–ခုနှစ်၊ နိုဝင်ဘာလ(၂၇)ရက်နေ့ကား အမှတ်တရရှိလှသော အံ့အားကြီးသင့်ခဲ့ရသော နေ့တစ်နေ့ဖြစ်ပါသည်။ လယ်တီဆရာတော်အတ္ထုပ္ပတ္တိမျှော်လင့်မှုတွေ ပျောက်ကွယ်လုလုဖြစ်နေချိန် စာမျက်နှာရှစ်ရာကျော်ရှိ ထုထည်ကြီးမားလှသော 'ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ ဘဝဖြစ်တော်စဉ်' စာအုပ်ကြီးကို စာမူဘဝလက်ခံရရှိလိုက်သောကြောင့်ဖြစ်ပါသည်။

လုံးစေ့ပါဌ်စေ့ စာကြောင်းစေ့မဖတ်နိုင်သေးမီ 'လွှမ်းခြုံရှုကြည့်' ရသည့်မြင်ကွင်းအရ လယ်တီဆရာတော်ကြီး အသက်ရှင်ပြန်ကြွလာပြီဟု ဆိုရမည်ဖြစ်ပါသည်။ ဦးအောင်မွန်၏ စေ့စပ်သေချာသော သုတေသန၊ ပီပြင်လှသောစုတ်ချက်များကြောင့် လယ်တီဆရာတော်ကြီး၏ ဘဝပုံရိပ်များသည် အသက်ဝင်ကာ ပြန်လည်လှုပ်ရှားလာကြသည်ကို တွေ့ကြပါမည်။

ဤမျှသာမကသေး စာပေအရေးအသားကောင်းမွန်သော ဦးအောင်မွန်မှာ လယ်တီဆရာတော်ကြီး၏ တပည့်အဆက်အနွယ်ဝင်ဖြစ်နေသည်ကို သူ၏အမှာစာအရ သိရှိရသဖြင့် ဦးအောင်မွန်ကို လယ်တီဆရာတော်ဘုရားကြီး၏ ဘဝဖြစ်တော်စဉ်ပြုစုရေးအတွက် မွေးဖွားပေးလိုက်သူဟုဆိုရမည် ထင်ပါသည်။ တကယ်ပင် ဦးအောင်မွန်သည် 'လယ်တီအောင်မွန်' အမည်ကို ခံထိုက်သူဖြစ်ပါသည်။

လယ်တီအောင်မွန်၏လက်ရာ 'ဂျုံစာအုပ်ကြီး' ကို ဖတ်ကြည့်ပါ...။

ပရိယတ္တိရှုထောင့်မှ ကျမ်းတတ်အကျော် ကျမ်းပြုအကျော်အဖြစ်လည်းကောင်း၊ ပဋိပတ္တိရှုထောင့်မှ တောရကျောင်းပျော် တရားထူးတရားမြတ်ရရှိပြီးပုဂ္ဂိုလ်ကျော်အဖြစ်လည်းကောင်း၊ မြန်မာနိုင်ငံ၏နယ်နိမိတ်ကိုကျော်၍ ကမ္ဘာကသိသော ဆရာတော်ကြီးအဖြစ်လည်းကောင်း ထင်ရှားခဲ့သော လယ်တီဆရာတော်ကြီးကို ပြန်လည်ဖူးတွေ့နိုင်ကြမည် ဖြစ်ပါသတည်း။ ။

အရှင်နန္ဒမာလာဘိဝံသ
မဟာသုဗောဓာရုံကျောင်းတိုက်၊ စစ်ကိုင်း။

အပြည်ပြည်ဆိုင်ရာထေရဝါဒဗုဒ္ဓသာသနာပြုတက္ကသိုလ် ဩဝါဒါစရိယ
နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသိုလ်ကြီးများဗဟိုအုပ်ချုပ်ရေးအဖွဲ့ ဒုတိယဥက္ကဋ္ဌ
ဘုန်းတော်ကြီးကျောင်းပညာသင်ကြားမှုကြီးကြပ်ရေးဗဟိုအဖွဲ့ ဥက္ကဋ္ဌ
လယ်တီဒီပနီထွန်းကားပြန့်ပွားရေးအဖွဲ့ ဒုတိယဥက္ကဋ္ဌ
လယ်တီကမ္မဋ္ဌာနာစရိယအဖွဲ့ ဥက္ကဋ္ဌ
နိုင်ငံတော်သံဃမဟာနာယကအဖွဲ့ တွဲဖက်အကျိုးတော်ဆောင်(၁)
ဒွိပိဋကဓရ၊ ဒွိပိဋကကောဝိဒ၊ မူလအာဘိဓမ္မိက၊ အဂ္ဂမဟာပဏ္ဍိတ၊
အဂ္ဂမဟာဂန္ထဝါစကပဏ္ဍိတ၊ အဂ္ဂမဟာကမ္မဋ္ဌာနာစရိယ၊ ပရိယတ္တိသာသနဟိတဓရ

## လယ်တီဘဒ္ဒန္တ ဇာဂရာဘိဝံသ ၏

# ကျမ်းဦးဝမ်းမြောက်ဖွယ်အမှာစကား

### သမိုင်းပေါင်းချုပ်စာအုပ်ကြီး

ဤကျေးဇူးတော်ရှင်လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်စဉ် ကျမ်းစာတစ်အုပ်တည်း၌ ခေတ်ပြိုင်ရာစုနှစ်အတွင်း ဗုဒ္ဓသာသနာ့ဝင် ထေရဝါဒသာသနာ့ဝင် မြန်မာ့သမိုင်း မြန်မာ့ရာဇဝင် လယ်တီနိကာယ သမိုင်းစုံကို အချိန်ယူလေ့လာမှတ်သားရေးသားထားသဖြင့် ဤစာအုပ်ကို လေ့လာသူတိုင်း သမိုင်းမျိုးစုံ လေ့လာသိရှိနိုင်သည့် အခွင့်အလမ်းကြီး ရရှိနိုင်သော ‘သမိုင်းပေါင်းချုပ် စာအုပ်ကြီး’ ဟု ခေါ်ဆိုနိုင်ပေသည်။

### မဟာဂန္ဓာရုံဆရာတော်ဘုရား၏ မိန့်ကြားချက်

ဤစာအုပ်သည် ကျေးဇူးတော်ရှင်လယ်တီဆရာတော်ဘုရားကြီး လွန်တော်မူသည့်နောက် နှစ်ပေါင်း(၈၀)ကြာမှ ထွက်ပေါ်လာသော ကျေးဇူးတော်ရှင်လယ်တီဆရာတော်ဘုရားကြီး၏ ဘဝဖြစ်တော်စဉ်စာအုပ်ဖြစ်ပေသည်။

အမရပူရတောင်မြို့ မဟာဂန္ဓာရုံဆရာတော်ဘုရားကြီးက ‘လယ်တီဆရာတော်ဘုရားကြီး၏ အကြောင်းထေရုပ္ပတ္တိဟူ၍ ပြည့်ပြည့်စုံစုံမရှိသေးသဖြင့် ပြုစုကြရန်လိုအပ်ကြောင်း၊ လယ်တီဆရာတော်ဘုရားကြီး၏ သာသနာရေးဆောင်ရွက်ချက်များသည် ရေတွက်မကုန်အောင်များပြောင် လှသော်လည်း မှတ်မှတ်သားသားမရှိခဲ့ကြ၊ မှတ်သားမိသမျှသည်လည်း စစ်ဘေးစစ်ဒဏ်

စသည်တို့ကြောင့် ပျောက်ပျက်ကုန်ကြပြီဖြစ်ရာ နောင်အခါ အတော်ပြန်၍စုဆောင်းရတော့မည် ဖြစ်ကြောင်း' ဟု မိန့်ကြားတော်မူခဲ့ဖူးကြောင်း သိရှိရပေသည်။

## လုပ်ငန်းလမ်းညွှန်သဖွယ်

ကျမ်းပေါင်းများစွာကို ရေးသားတော်မူခဲ့၍ ကျမ်းတစ်စောင်စာတစ်ဖွဲ့ဖြစ်ဖို့အရေး များစွာ ခက်ခဲသည်ကိုသိရှိထားသော မဟာဂန္ဓာရုံဆရာတော်ဘုရား၏စကားနှင့် ချဉ်းကပ်ဆွေးနွေးခဲ့ဖူးသော ရဟန်းပညာရှိ လူပုဂ္ဂိုလ်ပညာရှိအားလုံးတို့၏ လယ်တီဆရာတော်ဘုရားကြီးနှင့်ပတ်သက်၍ လက်တွေ့စာတွေ့ဆွေးနွေးချက်များသည် ဤမျှကြီးကျယ်ခမ်းနားထည်ဝါပြည့်စုံသော ကျမ်းကြီး တစ်ဆူ ဖြစ်ပေါ်ရေးအတွက် ဦးအောင်မွန် (မြတ်ဆုမွန်) အဖို့ လုပ်ငန်းလမ်းညွှန်သဖွယ်ဖြစ်လာခဲ့ပေသည်။

## အချိန်ယူရေးခဲ့

ဦးအောင်မွန် (မြတ်ဆုမွန်) သည် ကျေးဇူးတော်ရှင်လယ်တီဆရာတော်ဘုရားကြီး၏ ဘဝ ဖြစ်တော်စဉ်စာအုပ်ကြီး ယခုကဲ့သို့ ခံ့ညားပြည့်စုံစွာရေးသားထုတ်ဝေပူဇော်နိုင်ရန် ကျောင်းသား ဘဝမှ စတင်စုဆောင်းရေးသား အရှိန်ယူ အချိန်ယူခဲ့သည်ဟု သိရပေသည်။

ဈာန်ဝင်စားမှု ကျမ်းဂန်ရေးသားမှုတို့သည် လက်တွေ့မှာခက်ခဲလှသည်။ ယခုကဲ့သို့နှစ်ပေါင်း များစွာ စိတ်ဝင်တစား ရေးသားမှတ်သားစုဆောင်းတင်ပြထားသည်ကို ဗုဒ္ဓသာသနာတော်လုံး ဆိုင်ရာ ရဟန်းရှင်လူအားလုံးက ကြိုဆိုဝမ်းမြောက်ကြမည်သာဖြစ်ပေသည်။

## ကျောက်တိုင်စာက စကားပြော

ရှေးနှစ်ပေါင်းများစွာက စိုက်ထူရေးထိုးထားသော အလောင်းတော်မြတ်ဗောဓိသတ်ကြီး၏ ဖွားမြင်တော်မူရာ လုမ္ဗိနီအင်ကြင်းတော ရေကန်အနီးရှိ ကျောက်တိုင်စာသည် ကမ္ဘာ့သမိုင်း သုတေသနပညာရှင်များနှင့် ကမ္ဘာ့ဗုဒ္ဓဘာသာမိသားစုတို့အား–

'ဤနေရာ၌ ဂေါတမဘုရားလောင်းလျာ သိဒ္ဓတ္ထမင်းသားဖွားမြင်တော်မူသည်။ ဤရွာအား အခွန်အတုပ် ကင်းလွတ်ခွင့်ပေးကြောင်း သိရီဝမ္မာသောကမင်းကြီးက အမိန့်ထုတ်ပြန်ခဲ့သည်'

ဟု သာသနာ့ရာစုနှစ် (၂၆) ရာစုသားတို့အား တိကျမှန်ကန်သောဖြစ်စဉ်ကို ကျောက်တိုင် စာက စကားပြောခဲ့သည်။ ကျောက်တိုင်စာက စကားမှန်ပြောကြားခဲ့သဖြင့် ကမ္ဘာ့အံ့ချီးဖွယ်ရာ တစ်ခုအဖြစ် အသိအမှတ်ပြု ပူဇော်ခွင့်ရကြသည်။

ဤသို့ အသောကမင်းကြီး၏ ကျောက်တိုင်စာအမှတ်အသားကြောင့် ကမ္ဘာ့ဗုဒ္ဓဘာသာမိသားစုသည် ဝမ်းမြောက်ဂုဏ်ယူ ပူဇော်ခွင့်ရကြသည့်နည်းတူ ဦးအောင်မွန် (မြတ်ဆုမွန်) ၏ ကျေးဇူးတော်ရှင်လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ် စာအုပ်မှတ်တိုင်ကြီးသည် သမိုင်းမျိုးစုံ သုတေသနပညာရှင်များနှင့် ဒီပနီအေးရိပ်ခိုနားကြသူများအား တိုင်းတစ်ပါးလက်အောက်ကျနေသောခေတ်ဝယ် ကျေးဇူးတော်ရှင်လယ်တီဆရာတော်ဘုရားကြီး၏ ရဲဝံ့တွက် မကုန်နိုင်သော သာသနာရေး လောကရေး ဆောင်ရွက်ချက်အသံများကို နားရင်းကပ်၍ ပြောကြားနေသယောင် အခွင့်အလမ်းများ ရသိ ရရှိ ဂုဏ်ယူဝမ်းမြောက်ပူဇော်နိုင်မည်ဖြစ်ပါသတည်း။ ။

လယ်တီ

ဘဒ္ဒန္တ ဇာဂရာဘိဝံသ

၁၃၆၉-ခု၊ နတ်တော်လဆန်း (၁၃) ရက်။

၂၂-၁၂-၂၀၀၇။

မြန်မာ့သမိုင်းအဖွဲ့ အချိန်ပြည့်အဖွဲ့ဝင်

ဒေါက်တာသော်ကောင်း F.L.A., D. Litt. ၏

# အမှာစာ

မြန်မာနိုင်ငံတွင် အတ္ထုပ္ပတ္တိစာပေသည် ရှေးအခါကပင် ရာဇဝင်ကျမ်းများ၊ အရေးတော်ပုံကျမ်းများနှင့် မော်ကွန်း, ချောင်းအစရှိသည့် စာပေတို့အထဲတွင် တိမ်မြုပ်နေခဲ့ရာမှ နှစ်ဆယ်ရာစုနှစ်ဦးပိုင်းကစ၍ အများစုအနေဖြင့် တဖြည်းဖြည်းသီးသန့်စာအုပ်များအဖြစ်ခွဲထွက်ရေးသားပြုစုထုတ်ဝေလာကြသည်ကို တွေ့ရှိရပါသည်။

တွင်းသင်းတိုက်ဝန် မဟာစည်သူ ဦးထွန်းညို (၁၇၂၆–၁၈ဝ၆) ၏ 'မဟာရာဇဝင်သစ်' မှ အတ္ထုပ္ပတ္တိဆိုင်ရာ စာတစ်ပိုဒ်ကို နမူနာပြလိုသည်။ ညောင်ရမ်းမင်းဆက် ပျက်စီးပြတ်တောက်ရခြင်းနှင့်ပတ်သက်၍ နောက်ဆုံးမင်းဖြစ်သည့် မဟာဓမ္မရာဇာဓိပတိ (၁၇၃၃–၁၇၅၂) ကို အောက်ပါအတိုင်း အပြစ်တင်ဝေဖန်ရေးသားထားသည်။ တစ်ဖက်မှလည်း ထိုမင်း၏ ပညာလိုလားမှု၊ စာပေဂီတတို့တွင်မွေ့လျော်မှုကို ပြသထားသည်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

'မဟာဓမ္မရာဇာဓိပတိအမည်ရှိသော မင်းတရားကား ရာဇဝင်, ပုံပြင်, ဗေဒင်, ဂဏန်း, ဗဟုသုတ, စောင်းညှင်းစသော အတီးအမှုတ် လေ့ကျက်ကျွမ်းကျင်တော်မူ၏။ အမှုထမ်းအရာထမ်းတို့ကိုလည်း မတိမ်မမြုပ်စေရ။ စစ်ကြော၍ အထိုက်အလျောက် ပြုစုချီးမြှောက်တော်မူလေ့ရှိ၏။ နောက် ပြည်ထဲရေးကို မကြည့်မရှုမေ့လျော့တော်မူ၍ ပျော်ရွှင်မှုနှင့်သာ ရှိချေသည်။

...ရွှေစေတီကျောင်းနေ ရဟန်းပုဂ္ဂိုလ်ကို ရဟန်းမင်းပြုစေသည်ဟူ၍ ရွှေဦးထုပ်, ရွှေသင်္ကန်းဝတ်ဆင်စေ၍ သေစာယစ်ဝအောင် တိုက်၏...။

ထိုသို့ ချွတ်ယွင်းဖန်များသဖြင့် ကျီတော်ကြတော်တို့နှိုက် စပါးဆန်ရေ ဆွဲ့ရှား၍ အမှုထမ်းတို့ကိုပေးကမ်းရန် စားနပ်ရိက္ခာမရနိုင်သည်နှင့် မွန်တို့ဝန်းရံလျှင် မြို့သူမြို့သားတို့ ခေါင်းပါးတော်မွတ်သောကြောင့် မြို့ပြင်သို့ချည်း ထွက်ပြေးလေသဖြင့် အဝမြို့ပျက်လေ၏'[၁]။

---

၁။ တွင်းသင်းတိုက်ဝန် မဟာစည်သူ ဦးထွန်းညို။ မဟာရာဇဝင်(ညောင်ရမ်း)၊ တတိယတွဲ။ တည်းဖြတ်သူ ဦးသိန်းလှိုင်။ ရန်ကုန်၊ မိဘမေတ္တာအဖွဲ့ (တက္ကသိုလ်များ သမိုင်းသုတေသနဌာနအတွက်)၊ ၁၉၉၇။ စာ–၁၆၈။

တွင်းသင်းတိုက်ဝန် မဟာစည်သူဦးထွန်းညို၏ ရာဇဝင်သစ် (၁၇၉၄–ခန့်)[၁] တွင် ဦးကုလား (၁၆၇၈–၁၇၃၈ ခန့်) ၏ မဟာရာဇဝင်ကြီး (၁၇၃၀–ခန့်)၊ မှန်နန်းမဟာရာဇဝင်တော်ကြီး (၁၈၂၉) နှင့် အခြားရာဇဝင်ကျမ်းများကဲ့သို့ပင် မင်းမိဖုရားများ၊ မှူးကြီးမတ်ကြီး၊ စစ်သူကြီး၊ ရှင်အရဟံ ကဲ့သို့သော ဆရာတော် သံဃာတော်ကြီးများနှင့် စာဆိုအကျော်အမော်တို့အကြောင်း အတ္ထုပ္ပတ္တိ စာပေ တစ်စိတ်တစ်ပိုင်းတွေ့ရှိနိုင်ပေသည်။ မဟာစည်သူ၏ထူးခြားချက်မှာ ကျောက်စာ အထောက်အထား၊ ခေတ်ပြိုင်စာပေအထောက်အထားတို့ကို အသုံးပြုလာသောကြောင့် ရာဇဝင် ဆိုင်ရာ အကြောင်းအချက်များ၊ အတ္ထုပ္ပတ္တိဆိုင်ရာ ဘဝဖြစ်စဉ်များ ပိုမိုတိကျမှန်ကန်လာသည် ကို လေ့လာတွေ့ရှိနိုင်ပါသည်။

သီးခြားအတ္ထုပ္ပတ္တိစာပေဆန်သော ရှေးဟောင်းကျမ်းများမှာ အရေးတော်ပုံကျမ်းအများစု ပင်ဖြစ်ပါသည်။ ရာဇာဓိရာဇ်၊ ဟံသာဝတီဆင်ဖြူများရှင် ဘုရင့်နောင်ကျော်ထင်နော်ရထာ၊ အလောင်းမင်းတရားကြီးတို့၏ အတ္ထုပ္ပတ္တိဆိုင်ရာအချက်အလက်တို့ကို သက်ဆိုင်ရာအရေးတော်ပုံ ကျမ်းများတွင် ဖတ်ရှုလေ့လာနိုင်ပါသည်။ သို့ရာတွင် ယင်းအရေးတော်ပုံကျမ်းများသည် မျက်မှောက်ခေတ်တွင် ထွန်းကားနေသော အတ္ထုပ္ပတ္တိစာပေနှင့်ကွာခြားသည်မှာ မွေးဖွားချိန်မှ ကွယ်လွန်ချိန်အထိ ဘဝဖြစ်စဉ်အပြည့်အစုံကို ဖော်ပြရေးသားခြင်းမပြုဘဲ အောင်မြင်မှုကိုသာ အဓိကထားရေးသားခြင်းဖြစ်ပေသည်။ ဥပမာ–ဟံသာဝတီဆင်ဖြူရှင်အရေးတော်ပုံကို လေ့လာ ကြည့်လျှင် ဘုရင်နောင်၏ ငယ်စဉ်ဘဝအကြောင်းလုံးဝမပါဘဲ၊ တပင်ရွှေထီးမင်းတရားနတ်ရွာစံ ချိန် အေဒီ ၁၅၄၉–ခုနှစ်မှစ၍ ဘုရင့်နောင်မင်းတရားကြီး၏ အောင်မြင်မှုများကို မှတ်တမ်း တင်ထားပြီး နတ်ရွာမစံမီ (၂) နှစ်ခန့် အေဒီ ၁၅၇၉–ခုနှစ်တွင် ကျမ်းကို အဆုံးသတ်ထား ပါသည်။[၂]

မြန်မာတို့၏အတ္ထုပ္ပတ္တိစာပေသည် ဗုဒ္ဓဝင်ပါဠိတော်၊ ဗုဒ္ဓဝင်ပါဠိတော်နိသျ၊ အဋ္ဌကထာနှင့် ဋီကာတို့တွင် မြစ်ဖျားခံပြီး၊ မဟာနိပါတ်ဇာတ်တော်ကြီးများမှစ၍ ဆရာတော် သံဃာတော်ကြီး များအကြောင်း ထေရုပ္ပတ္တိအဖုံဖုံကို ရှေးမြန်မာစာပေတွင် တွေ့ရှိရပါသည်။ အေဒီ ၁၈၅၁– ခုနှစ် ပုဂံမင်း (၁၈၄၆–၁၈၅၃) ၏ အမှုထမ်းတစ်ဦးဖြစ်သော မင်းလှသီရိသီဟသူ ပြုစုသည့် 'ဆရာတော်သံဃာတော် ၁၀၅–ပါးထေရုပ္ပတ္တိ' ကို သူရိယမဂ္ဂဇင်းတွင် ၁၉၂၁–ခုက ပုံနှိပ်စာ အဖြစ် အပိုင်းလိုက်ဖော်ပြထားကြောင်း တွေ့ရှိရပြီးနောက် ၁၉၉၂–ခုနှစ်တွင် 'ဆရာတော်

---

၁။ တွင်းသင်းတိုက်ဝန်မဟာစည်သူဦးထွန်းညို၏ *ရာဇဝင်သစ်* နှင့် ဒုတိယမုံရွေးဆရာတော် အရှင်အာဒိစ္စရံသီ၏ *ရာဇိန္ဒရာဇဝံသမဏ္ဍနီ (ခေါ်) မုံရွေးမဟာရာဇဝင်ကျော်* အကြောင်းကို ဤအမှာစာရေးသူ၏ အင်္ဂလိပ်ဘာသာဖြင့် ရေးသားထားသော စာတမ်းတွင် ကြည့်နိုင်ပါသည်။ 'Two Compilers of Myanmar History and their Chronicles' in *Myanmar Historical Commission (Golden Jubilee) Conference Proceedings.* Pt. 1. Yangon: The Commission, 2005. P. 312-387.

၂။ ဥသျှစ်ရောဒ်အမတ်ကြီး။ ဟံသာဝတီဆင်ဖြူရှင် အရေးတော်ပုံ မော်ကွန်းဥဒါန်း။ တည်းဖြတ်သူ ဒေါက်တာ တိုးလှ။ ရန်ကုန်၊ မြန်မာသမိုင်းအဖွဲ့၊ ၂၀၀၆။ (စာ ၃ နှင့် ၁၆၂)။

သံဃာတော် ၁၀၅–ပါးထေရုပ္ပတ္တိစာရင်း' အမည်ဖြင့် လက်နှိပ်စက်မူအဖြစ် တက္ကသိုလ်များ ဗဟိုစာကြည့်တိုက်က ကူးယူနိုင်၍ဖတ်ရှုလေ့လာရပါသည်။

မြန်မာနိုင်ငံတွင်ပုံနှိပ်ထုတ်ဝေသော အစောဆုံးပုံနှိပ်စာအုပ်ကို ၁၈၁၆–ခုနှစ်တွင် ရန်ကုန်၌ ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။ အစောပိုင်းကပုံနှိပ်သည့် ထေရုပ္ပတ္တိများတွင် ဆရာတိုင်းပြုစုသော 'ပထမရွှေကျင်ဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိကထာစာတမ်း'ကို ၁၈၉၉–ခုနှစ်က ပုံနှိပ်ထုတ်ဝေသည်ကို တွေ့ရှိရပါသည်။

ထိုကဲ့သို့ အတ္ထုပ္ပတ္တိစာပေ၊ ထေရုပ္ပတ္တိစာပေများကို ပေမူဖြင့်လည်းကောင်း၊ ပုံနှိပ်စာအုပ်ဖြင့်လည်းကောင်း ဖတ်ရှုလေ့လာရသည်မှာ နှစ်ပေါင်းအတော်ပင်ကြာပြီဖြစ်သော်လည်း ယခုအမှာစာရေးရန် ကျွန်တော့်ထံပေးပို့ထားသော ဦးအောင်မွန် (မြတ်ဆုမွန်) ရေးသားပြုစုသည့် 'ကျေးဖူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်' စာမူကဲ့သို့ အချက်အလက် တိကျပြည့်စုံသောထေရုပ္ပတ္တိမျိုး မြန်မာစာပေ မြန်မာစာအုပ်လောကတွင် တစ်ကြိမ်တစ်ခါမျှ မတွေ့ရှိခဲ့ဖူးသေးပါ။

ဦးအောင်မွန်ကို လွန်ခဲ့သည့် နှစ် (၃၀) ခန့် တက္ကသိုလ်များဗဟိုစာကြည့်တိုက်တွင် ကျွန်တော်တာဝန်ယူလုပ်ကိုင်နေစဉ်ကပင် စတင်သိရှိခဲ့ပါသည်။ ထိုနှစ် (၃၀) ခန့်ကတည်းကပင် ဦးအောင်မွန်က လယ်တီဆရာတော်ဘုရားကြီးနှင့်ပတ်သက်သော အချက်အလက် အထောက်အထားများကို တတ်အားသရွေ့ ရှာဖွေနေခဲ့ရာ ကျွန်တော်ကူညီရှာဖွေပေးခဲ့သည်ကို မှတ်မိပါသည်။

လယ်တီဆရာတော်ဘုရားကြီးကို ရန်ကုန်တက္ကသိုလ်က ဂုဏ်ထူးဆောင်ပါရဂူဘွဲ့ချီးမြှင့်ခဲ့ကြောင်း လူသိများပါသည်။ ဦးအောင်မွန်က မူရင်းအထောက်အထားရှာပေးရန်မေတ္တာရပ်ခံပါသည်။ ဒုတိယကမ္ဘာစစ်အတွင်း ရန်ကုန်တက္ကသိုလ်၏မှတ်တမ်းများနှင့် ရန်ကုန်တက္ကသိုလ်စာကြည့်တိုက်၏စာစုများ ပြာပုံအဖြစ် ဆုံးရှုံးခဲ့ရပါသည်။ သို့သော် လွန်ခဲ့သည့်နှစ် (၄၀) ကျွန်တော်တက္ကသိုလ်များဗဟိုစာကြည့်တိုက်ကို တာဝန်စယူသည့်အချိန်က စာကြည့်တိုက်မှူး ဆရာဦးသိန်းဟန်နှင့် ထိုအချိန်က ပညာရေးဒုတိယဝန်ကြီး ဒေါက်တာညီညီတို့၏ အကူအညီဖြင့် စာအုပ်စာတမ်းများ ပြန်လည်စုဆောင်းနိုင်ခဲ့ခြင်းကြောင့် စစ်ကြိုခေတ် ရန်ကုန်တက္ကသိုလ်၏မှတ်တမ်း အတော်စုံစုံလင်လင်ကို ကံအားလျော်စွာ ပြန်လည်စုဆောင်းရရှိခဲ့ရာ ဦးအောင်မွန်လိုချင်သည့် မူရင်းအထောက်အထားတို့ကို ရန်ကုန်တက္ကသိုလ်၏ နှစ်ချုပ်အစီရင်ခံစာများ[၁]နှင့် အစိုးရပြန်တမ်းများမှတစ်ဆင့်ရရှိခဲ့ပါသည်။

၁၉၆၄–ခုနှစ်ခန့်က သိမ်ဖြူလမ်းတွင်ရှိခဲ့သော အစိုးရပုံနှိပ်တိုက်၏ စာအုပ်ဆိုင် (Government Book Depot of the Government Printing Press) ကို ဖျက်သိမ်းချိန်က ကျွန်တော်နှင့် ကျွန်တော့်လုပ်ဖော်ကိုင်ဖက် ဦးမောင်မောင် (နောင် မန္တလေးတက္ကသိုလ်စာကြည့်တိုက်မှူး) တို့ မြန်မာနိုင်ငံပြန်တမ်း (Burma Gazette) အတော်များများကို ၁၈၆၈–ခုနှစ်မှစ၍ နှစ်အလိုက် ရယူထိန်းသိမ်း

၁။ *Reports of the Executive Committee of the Council of the University of Rangoon.* Annual Reports.

ထားနိုင်သဖြင့် ပြန်တမ်းများ ပျက်စီးပျောက်ကွယ်မည့်အရေးမှ ကာကွယ်နိုင်ခဲ့ပါသည်။ ဦးအောင်မွန် လိုအပ်သည့် ပြန်တမ်းများကို စာကြည့်တိုက်တွင် သိမ်းဆည်းထားသဖြင့် မူရင်းအထောက် အထားများကို အတိအကျ ကူးယူပေးနိုင်ခဲ့ပါသည်။ ဦးအောင်မွန်သည် တွင်းသင်းတိုက်ဝန် မဟာစည်သူ၏နည်းလမ်းအတိုင်း အထောက်အထားများကို စုဆောင်းလေ့လာပြီးမှ မိမိပြုစုသော ကျမ်းကို အချိန်ယူရေးသားခဲ့ပါသည်။

ဦးအောင်မွန်က လယ်တီဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိကို နှစ်ပေါင်းများစွာ အချိန်ယူ ရေးသားရာတွင် မူရင်း, ခေတ်ပြိုင်အထောက်အထားမတွေ့လျှင် အချက်အလက်ခိုင်မာမှုမရှိ ဟု ယူဆဆုံးဖြတ်လျက် မိမိပြုစုနေသည့်စာအုပ်တွင် ထည့်သွင်းရေးသားခြင်းမပြုပါ။ ထို့ကြောင့် ယခုပုံနှိပ်ထုတ်ဝေသည့် ဦးအောင်မွန်၏ 'ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးဘဝဖြစ်တော်စဉ်' စာအုပ်သည် လယ်တီဆရာတော်ဘုရားကြီးနှင့်ပတ်သက်၍လည်းကောင်း၊ ထေရုပ္ပတ္တိ,အတ္ထုပ္ပတ္တိ စာပေကောင်း စာပေမွန်အဖြစ်လည်းကောင်း၊ အပြည့်အစုံဆုံး စံထားရမည့်စာအုပ်ကြီးတစ်အုပ် ဖြစ်သည်ကို စာရှုသူများ တွေ့ရှိရမည် ဖြစ်ပါသည်။

မြန်မာစာပေနှင့် စာအုပ်လောကကို အဆင့်အတန်းမြှင့်တင်ပေးလိုက်သည့် ရည်ညွှန်းစာအုပ် ကောင်းတစ်အုပ်၊ ဗုဒ္ဓသာသနာအတွက် အလွန်တန်ဖိုးရှိပြီး အရေးပါသည့် ထေရုပ္ပတ္တိစာအုပ် ကောင်းတစ်အုပ်လည်းဖြစ်သဖြင့် ဝယ်ယူလေ့လာဖတ်ရှုသင့်သော စာအုပ်ကြီးဖြစ်ပါသည်။ အကြောင်းအရာအချက်အလက် ခိုင်လုံပြည့်စုံ မှန်ကန်တိကျသောကြောင့် စာကြည့်တိုက်တိုင်း၌ ဝယ်ယူထားရှိပြီး စာရှုသူအများဖတ်ရှုလေ့လာနိုင်စေရန် စီစဉ်ဆောင်ရွက်ပေးသင့်သော သုတေသန ကျမ်းကြီးတစ်ကျမ်းဖြစ်ကြောင်း အလေးအနက်ဖော်ပြအပ်ပါသည်။

သော်ကောင်း

၂၃ ဒီဇင်ဘာ ၂၀၀၇။

## ဦးအောင်ထွတ် (ရန်ကုန်တက္ကသိုလ်) ၏

# ဆိုခွင့်ကြုံခိုက် ဆိုပါရစေ

'ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ ဘဝဖြစ်တော်စဉ်' စာမူကြီးကို လွန်ခဲ့သော ၁၉၉၉–ခုနှစ်ကပင် ဖတ်ရှုခဲ့ပြီးဖြစ်ပါသည်။ ယခုကဲ့သို့ အပြည့်အစုံကြီးကားမဟုတ်။ စာမျက်နှာ ၅၀–ခန့် ၇၀–ခန့် တို့ဆိုင်းတို့ဆိုင်းဖတ်ခဲ့ရခြင်းဖြစ်ပါ၏။ သို့ရာတွင် အစုအစည်းကလည်း ကောင်း၊ အတင်အပြကလည်းကောင်းလှသဖြင့် စာမူမလာသောအခါ တမ်းတရသည့်အထိ ဖြစ်ခဲ့ပါသည်။ ဖတ်ရပြန်သောအခါ လက်ကမချနိုင်။ ဆရာတော်ဘုရားကြီး၏ ဂုဏ်တော်များ, ကျေးဇူးတရားများကို တစိမ့်စိမ့်ကြည်ညိုပြီး သဒ္ဓါအသစ်, စေတနာအသစ်တွေ တသီတတန်းကြီး ပေါ်လာသည်ကို ခံစားရပါသည်။ ကျမ်းစာရေးသူ၏ ဖွဲ့လုံ့လအားမာန်တို့ကိုလည်း မလေးစား မချီးကျူးဘဲ မနေနိုင်တော့ပါ။

အားလုံးနီးပါးဖတ်ပြီးသောအခါ အလျင်အမြန်ထုတ်ဝေရန် လောဆော်ရပြန်ပါသည်။ သို့သော် ကိုအောင်မွန်ကား လူတစ်မျိုးလေလားမသိ။ ကျွန်တော် ဘယ်လိုပြောပြောမလှုပ်ပါ။ သူ ကား ကျွန်တော့်လိုလူစားမျိုးကိုမဆိုထားဘိ သူကိုးစားရာ ဆရာသမားရင်း ဆရာတော် အရှင်မာနိတ သိရီဘိဝံသ (နိုင်ငံတော်သံဃမဟာနာယကအဖွဲ့ဝင်)ကဲ့သို့ ပုဂ္ဂိုလ်မျိုး၏စကားကိုပင် မတုန်လှုပ် နေခဲ့သူဖြစ်၏။ ဆရာတော်က သူ့တန်ဖိုးကိုသိသဖြင့် 'ဆရာတော်ကြီးထေရုပ္ပတ္တိမပြီးလျှင် ငါ့ဆီမလာခဲ့နဲ့' ဟု စာရေးလိုက်သည်။ ကိုအောင်မွန်သည် ထိုစာကိုလက်ထဲတွင်သိမ်းထားပြီး နှစ်ပေါင်းများစွာ ဆရာတော့်ထံ မသွားဘဲနေခဲ့သည်။ စာအုပ်ပြီးခါနီးမှ ဆရာတော်ထံသွားရာ ဆရာတော်က 'ဒီကောင်၊ ဘာကြောင့် ငါ့ဆီ မလာတာလဲ' ဟုမေးသည်။ သူက ဆရာတော်အား ဆရာတော်ရေးသားခဲ့သောစာကလေးကိုထုတ်ပြပြီး ဆက်ကပ်လိုက်သည်။ ထိုအခါမှ ဆရာတော် က 'ဒီကောင်၊ ဒါမျိုးတော့တတ်သားပဲ၊ ခုစာအုပ်ပြီးပြီးလား' ဟု ပြုံးပြုံးကြီးမေးသည်။ သူက အကျိုးအကြောင်းလျှောက်ပြမှ ဆရာတော်ကျေနပ်တော်မူခဲ့ပါသည်။

လွန်ခဲ့သော နှစ်ပေါင်းသုံးဆယ်ကျော် တက္ကသိုလ်ကျောင်းသားလေး မောင်အောင်မွန် ဘဝကပင်စတင်၍ ဆရာတော်အရှင်မာနိတသိရီဘိဝံသနှင့် အရှင်နန္ဒမာလာဘိဝံသတို့၏ အကူအညီဖြင့်ပြုစုခဲ့သော ဤလယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်ကား နှစ်ပေါင်း သုံးဆယ်ကျော်ကြာမှ ကျမ်းကြီးကျမ်းခိုင်အဖြစ် ပွက်ပေါ်ခဲ့ပါပြီ။ မချီနိုင်မပိုးနိုင် နှစ်ပေါင်း သုံးဆယ်ကျော်ထမ်းဆောင်ခဲ့ရသော ထေရုပ္ပတ္တိဝန်ထုပ်ဝန်ပိုးကြီးကို ဦးခေါင်းပေါ်မှချ၍ကြည်နူး ပီတိခံစားခွင့်ရသွားပါပြီ။ ရောမစာအုပ်(စာမူ)ကြီးကိုရင်ဝယ်ပိုက်၍ ကားပေါ်မှ ပြုံးပြုံးကြီးဆင်းလာ

သော ကိုအောင်မွန်၏ပုံရိပ်ကို မြင်တွေ့လိုက်ရသောအခါ ကျွန်တော်၏နှလုံးသားသည်လည်း အပြုံးအားကူးစက်ကာ ဝမ်းသာမဆုံးပါ။

နိပါတ်တော်၌–ထွန်ချေးခဲပေါ် တက်ထိုင်နေစဉ် အတောင်နှစ်ဖက်ကိုသိမ်း၍ မိုးကောင်းကင်မှ ထိုးဆင်းလာသောသိမ်းငှက်ရန်ကို ထွန်းချေးခဲအကြားသို့ ပြေးဝင်၍ ရှောင်တိမ်းအနိုင်ယူလိုက်သော ဗီလုံးငှက်ကလေးသည် သိမ်းငှက်၏အလောင်းကောင်ကိုကြည့်ရှုကာ ဝမ်းသာကြည်နူးဥဒါန်းကျူးဘိသကဲ့သို့ ကိုအောင်မွန်သည်လည်း ကြည်နူးပီတိတသိမ့်သိမ့်ရှိလိမ့်မည်ဟု တထစ်ချယုံကြည်ပါသည်။

ကိုအောင်မွန်၏အရည်အသွေးကို 'မြတ်စွာဗုဒ္ဓမေတ္တေယျ' စာအုပ်က သက်သေခံပြီးဖြစ်သဖြင့် အထူးပြောဖွယ်မရှိပါ။ သူ၏ဖွဲလုံ့လအားမာန်အထုံဝါသနာတို့ကိုကား မဖော်ပြဘဲ မနေနိုင်ပါ။ ဆိုခွင့်ကြုံခိုက် ဆိုပါရစေ။ သူကား ပါရမီရှင်ဟု ဆိုနိုင်ပါ၏။ လူထူးလူဆန်းဟုလည်း ယူဆနိုင်ပါ၏။ တက္ကသိုလ်တွင် သင်ယူစရာဘာသာရပ်ပေါင်းမြောက်မြားစွာရှိသော်လည်း အများအမြင်တွင် ပျင်းစရာဘာသာကြီး (dry language), ဘာသာသေကြီး (dead language) ဖြစ်သော ပါဠိဘာသာကိုမှ မက်မက်မောမော ဖက်ဖက်တွယ်တွယ်သင်ယူခဲ့၏။ လူငယ်ကျောင်းသားချင်း ပေါင်းသင်းရမည့်အစား ဆရာကြီးဒေါက်တာသန်းထွန်း၊ ဆရာကြီးဦးမောင်မောင်တင် (မဟာဝိဇ္ဇာ)၊ ဆရာကြီး ဦးကို (ပါဠိဉာဏမှူး)၊ ဆရာကြီးဦးကျော်ရှိန် (မဟာဝိဇ္ဇာ၊ သကျသီဟ ဝင့်သကာ) စသူတို့ထံဆည်းကပ်ပေါင်းသင်းခဲ့သည်၊ ဆရာကြီးတို့ထံမှပညာအမွေကို ရသမျှယူခဲ့သည်။

မန္တလေးတက္ကသိုလ်ကျောင်းသားဘဝက လူထုဦးလှ ဒေါ်မာတို့ထံတွင်နေ၍ ကျောင်းတက်သည်။ သူ့ပတ်ဝန်းကျင်တွင် စာရေးဆရာ, ကဗျာဆရာ, သတင်းစာဆရာတို့လွှမ်းနေသည်။ သို့သော် သူကား ပါဠိမှပါဠိ၊ ယခုအချိန်အထိ ပါဠိနှင့်နီးနွယ်သောစာပေများကို မဖတ်ဖြစ်သောနေ့ဟူ၍မရှိဟု ပြောဖူးပါသည်။

ဘဝဒါထွေထွေ အခြေအနေတွေ ပြောင်းပါသော်လည်း သူ၏ဖွဲနဘဲ, သတ္တိ, အားမာန်တို့ကား ပြောင်းမသွား၊ ပြိုလဲမသွား။ ဤသို့သောအကြောင်းများကြောင့် 'မြတ်စွာဗုဒ္ဓ မေတ္တေယျ' နှင့် 'လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်' တို့ကဲ့သို့သော စာအုပ်ကြီးမျိုးကို ရေးသားနိုင်ခြင်းဖြစ်သည်ဟုဆိုပါက မြှောက်လွန်းသည်ဟု မဆိုသာပါ။

ယခု လယ်တီဆရာတော်ကြီး၏ဘဝဖြစ်တော်စဉ်စာအုပ်ကြီးနှင့်ပတ်သက်၍ဆိုပါမည်။

မြန်မာနိုင်ငံသာသနာသမိုင်း၌ 'လယ်ဘီဆရာတော်' ဟု ကမ္ပည်းမော်ကွန်းရေးထိုးခံရသော သုတဗုဒ္ဓဝစ်ဆူ ကျေးဇူးရှင်လယ်တီဆရာတော်ဘဝကြီး၏ဘဝပုံရိပ်မှာ အတုမဲ့ဟုခေါ်ဆိုရလောက်အောင် ကြီးကျယ်လှပေသည်။ ထို့ကြောင့် နှစ်ပေါင်းတစ်ရာကျော်ကာလအတွင်း ဆရာတော်ဘုရားကြီးနှင့်စပ်လျဉ်း၍ ထေရုပ္ပတ္တိအစောင်စောင်, ကျမ်းစာအဖုံဖုံ, စာတမ်းအထွေထွေ ပေါ်ပေါက်ခဲ့သည်။ ပေါ်ထွက်ဆဲလည်းဖြစ်သည်။ မျက်မှောက်ခေတ် ဆယ်စုနှစ်များအတွင်းတွင်ကား လယ်တီဟူသောအမည်သည် သာသနာရေးလောကတွင်သာမက ပြည်တွင်းပြည်ပ

တက္ကသိုလ်များရှိ ပညာရှင်လောကတွင်ပါ နေရာယူလာသည်ကို တက္ကသိုလ်အသီးသီးရှိ ပညာရေးအဖွဲ့များသို့ တင်သွင်းသော မဟာဝိဇ္ဇာဘွဲ့ယူကျမ်းများ၊ ဒေါက်တာဘွဲ့ယူကျမ်းများက သက်သေခံလျက်ရှိပေသည်။ ဤကား ဆရာတော်ကြီး၏ ဂုဏ်ကျေးဇူးအနန္တမှ ကေဒေသ တစ်စိတ်တစ်ဒေသမျှသာ ဖြစ်ပေသည်။

ထိုအကြောင်းကြောင့် ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်ကျမ်း၏ အမှာစကားတွင် ကိုအောင်မွန်က 'မိုးကောင်းကင်ရှိ ကြယ်တာရာများကို ရေတွက်၍ မရကောင်းမှန်းသိပါသော်လည်း ပုထုဇဉ်တို့သဘာဝ စမ်းသတ်ရေတွက်ကြည့်လိုသည့်နည်းတူ ဆရာတော်ဘုရားကြီး၏ ဂုဏ်တော်ကျေးဇူးတော်တို့ကို ဖော်ကျူးမိခြင်းဖြစ်ပါသည်' ဟု အမှာစကားကို အဦးဆုံးရေးမှာထားပါသည်။

သူရေးသားခြယ်မှုန်းပြသသော ဆရာတော်ဘုရားကြီး၏ ဘဝရုပ်ပုံကားချပ်ကို လေ့လာသောအခါ သာသနာ့ဝန်ထမ်း ရှင်ရဟန်းတို့အတွက်သာမက လောကီလူသားတို့အတွက်ပါ ရောမစံပြလူသား တကယ့်အာဇာနည် တကယ့်ပုဂ္ဂိုလ်မွန်ကြီးဖြစ်ကြောင်း ထင်ထင်ရှားရှား တွေ့ရပေသည်။

အမြွက်မျှတင်ပြပါရစေ။ ဆရာတော်ဘုရားကြီးဟူသောပုံရိပ်တွင် ပရိယတ္တိရှေ့ဆောင်၊ ပဋိပတ္တိမီးရှူးတိုင်ကြီး၊ ကျမ်းပြုဆရာတို့၏အဓိပတိ၊ မြန်မာစာပေဂန္ထဝင်ကျော်ပုဂ္ဂိုလ်၊ မဟာဓမ္မကထိကအကျော်၊ ခေတ်တစ်ခေတ်၏ ပရဟိတရှေ့ဆောင်ကြီး၊ ကဗျာဆရာ မဟာကဝိကြီး၊ ကမ္ဘာကိုသာသနာစတင်မျိုးစေ့ချပေးသူ၊ ပြည်တွင်းပြည်ပ သာသနာပြုအဖွဲ့များ၏ ရှေ့ဆောင်ကြီး စသည်ပုံရိပ်များ ထင်ထင်ရှားရှားကြီး ပေါ်လွင်နေပါသည်။

ပရိယတ္တိရှေ့ဆောင်ဖြစ်ပုံနှင့်စပ်၍ ဆရာတော်ကြီးသည် ရဟန်းဖြစ်စ ဒုတိယဝါမှစ၍ မန္တလေးသို့ရောက်၏။ ထိုစဉ်က စံကျောင်းတိုက်ကြီးမှာ နာမည်ကြီးလှသဖြင့် စာသင်သားတို့အတွက် ကျောတစ်နေရာချစရာခက်လှ၏။ ဆရာတော်တစ်ပါး၏ကျေးဇူးကြောင့် နေခွင့်ရပါသော်လည်း သူတကာတို့မလိုချင်သော တံခါးပေါက်ဝ သောက်ရေအိုးစင်ဘေးတစ်နေရာကိုရ၏။ ထိုနေရာလေးမှာပင် ဇာတိစိုင်ပြင်ရွာမှပါလာသော သားရေနယ်အပိုင်းကလေးကိုခင်းကာ နေရပါ၏။ သို့သော် လောကဓံကို လုံးဝဂရုမပြု။ ပြင်းထန်သော ဖွဲလုံ့လ,စူးရှသည့်ဉာဏ်ပညာဖွဲ့နဘဲကြီးစွာပညာသင်ခဲ့၏။ စံကျောင်းဆရာတော်ကြီး အရှင်သုဒဿနကိုယ်တော်တိုင်ကပင် အသိအမှတ်ပြုရသော စာဆိုတပည့်အဖြစ်သို့ရောက်ခဲ့သည်။

ထိုအချိန်မှစ၍ စံကျောင်းတိုက် ၌ စာသင်သားဘဝ၊ စာချဆရာဘဝတို့ဖြင့်(၁၇)နှစ်တိုင်တိုင် သီတင်းသုံးခဲ့၏။ ဥဿျောင်ဆရာတော်အသီးသီးထံနည်းခံခဲ့၏။ ပညာတတ်လူစွမ်းကောင်းကြီးများဖြစ်ကြသော ယောအတွင်းဝန်ဦးဘိုးလှိုင်၊ ပညာရှိကြီးဦးဘား၊ ပိဋကတ်တော်အုပ် ဦးယံစသည် လူပုဂ္ဂိုလ်များထံ မြန်မာစာရေးသားပုံတို့အတွက် နည်းခံခဲ့သည်။

မန္တလေးမြို့ပေါ်တွင် မရောက်ဖူးသော စာသင်တိုက်,ပိဋကတ်တိုက်ဟူ၍မရှိ၊ မကြည့်ရှု မလေ့လာဖူးသော စာပေမရှိ။ ပင်ကိုယ်က ရဲရဲစူးစူး, နဲနဲနက်နက်, တိက္ခဂမ္ဘီရပညာစွမ်းအားကို ဤသို့သောပတ်ဝန်းကျင်က ပံ့ပိုးပေးလိုက်သဖြင့် ထိပ်တန်းကျမ်းပြုပညာရှင်ကြီးအဖြစ်သို့ ရောက်ခဲ့သည်။

ယနေ့ခေတ်ကာလအထိ မည်သူတစ်ဦးတစ်ယောက်ကမျှ ထင်ထင်ပေါ်ပေါ် မသုံးသပ် မဝေဖန်ခဲ့ဖူးသော အဘိဓမ္မတ္ထဝိဘာဝိနီဋီကာကျော်ကျမ်းကို အချက်ပေါင်း ၂၀၀–ကျော် ထုတ်ဖော်၍ ဝေဖန်သုံးသပ်ပြခဲ့သည်။ ပရမတ္ထဒီပနီဋီကာကျမ်းကြီးပြုစု၍ အင်္ဂလန်၊ သီဟိုဠ်ကျွန်းတို့သို့ ပို့ဆောင်ခဲ့ပါသည်။ ပုဂံခေတ် သဒ္ဒနီတိသဒ္ဒါကျမ်းကြီးနှင့်အလားတူ နိရုတ္တိဒီပနီ သဒ္ဒါကျမ်းကြီးကိုပြုစုခဲ့၏။ ဆရာတော်ကြီးပြုစုခဲ့သည့် ဒီပနီကျမ်းပေါင်း ရာကျော်အနက် ဤကျမ်းကြီး ၂–ကျမ်းကား ဆရာတော်ကြီးတန်ဖိုးအထားဆုံး ထိပ်တန်းအကျဆုံးဖြစ်သည်ဟု သိရပါသည်။

ဆရာတော်ကြီးသည် ပဋိပတ်အရာတွင်လည်း စံပြဖြစ်၏။ ၁၈–ဝါအရ မန္တလေးစံကျောင်းတိုက်မှခွာပြီး မုံရွာလယ်တီတောရသို့ဝင်၏။ ထိုအချိန်က လယ်တီတောကား နေ့ခင်းကြောင်တောင်မှာပင် ကြမ်းတမ်းလှ၏။ နွားသတ်သမားတို့ ပုန်လျှိုးခိုအောင်းရာဖြစ်သဖြင့် အနံ့အသက်က ဆိုးလှ၏။ ယင်းအနံ့ကြောင့် အမနုဿဓော် နာနာဘာဝတို့ပျော်မြူးကာ တောဟိန်းခြင်း, တောချောက်ခြင်းပင်ရှိ၏။ ထိုတောအတွင်း၌ ဖြူစင်သောသီလ,ခိုင်မြဲသောသမာဓိတို့ဖြင့် မေတ္တာကမ္မဋ္ဌာန်းကြီး စီးဖြန်းကာ အမနုဿတို့၏မိတ်ဆွေဖြစ်ခဲ့၏။ သမထဝိပဿနာတို့ကို စွဲစွဲမြဲမြဲအားထုတ်ခဲ့၏။

ထိုအချိန်မှစ၍ တစ်နေရာတစ်ဒေသတည်း၌ စွဲစွဲမြဲမြဲမနေ။ တစ်ဖက်မှ ပရိယတ္တိလုပ်ငန်းကြီးကလည်း အဆက်မပြတ်သေးရှိရာ ပရိသတ်များလာလိုက် ရှောင်တိမ်းလိုက်ဖြင့် တောမှီယောဂီကြီးဖြစ်ကာ မြို့ရွာအနံ့, တောအနံ့, တောင်အနံ့ လှည့်လည်ခြေဆန့်ရသည့်ဘဝသို့ ရောက်လာသည်။ ဆင်းရဲမှုကြမ်းတမ်းမှုတို့ကား မပြောပြနိုင်။ မဟာဝုန်ဝက်ရဲတောကြီးအတွင်း တစ်ကြိမ်၊ လက်ပတောင်းတောရတွင်တစ်ကြိမ် သေလုမြောပါးဖြစ်ရာ ထမ်းစဉ်ဖြင့် ထမ်းထုတ်ရသည့်အခြေအနေသို့ရောက်ခဲ့သည်။ အတိတ်ပါရမီနှင့် ပစ္စုပ္ပန်ထောက်ကူမှုကြောင့် ဓမ္မရေးရာတွင် တစ်ခေတ်မှတစ်ခါ ဓမ္မပါရဂူကြီးဘဝသို့ ရောက်ခဲ့ရသည်။

မဟာဂန္ဓာရုံဆရာတော်အရှင်ဥတ္တရအား ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်းနှင့်စပ်၍ ညွှန်ပြခြင်း၊ မိုးညှင်းဆရာတော်အရှင်သုမနအား စတုရာရက္ခကမ္မဋ္ဌာန်း ပိုင်နိုင်စွာအားထုတ်ပြီးမှ ဝိပဿနာကို တက်–ဟုမိန့်ကြားခြင်း၊ ကြောင်ပန်းဆရာတော်အရှင်ဣန္ဒက, သေကျွံတောင်ဦးတိလောက စသည့် ဝိပဿနာနည်းခံတပည့်ကြီးများ မွေးထုတ်ပေးခြင်းတို့သည် ဆရာတော်ကြီး၏ ဘဝမှတ်တိုင်များဖြစ်သည်။ တပည့်တို့ကို ဆရာတော်ကြီး နည်းညွှန်ပြသသည်ဆိုရာမှာ သာမန်မျှမဟုတ်၊ 'ဘယ်တောကိုသွား, ဘယ်လိုနေ, ဘယ်တရားအားထုတ်' ဟု ဂဃနဏကြီးညွှန်ပြကာ အဖော်တစ်ဦးပါထည့်ပေး၍ နေရာအရောက်ပို့ပေးခြင်းမျိုးဖြစ်၏။

ဤလယ်တီဖြစ်တော်စဉ်ကျမ်းပြုဆရာသည် ဤပြကွက်များကို တစ်ခန်းပြီးတစ်ခန်း၊ တစ်ပိုင်းပြီးတစ်ပိုင်း ထုဆစ်ပိုင်းခြား၍ ဖော်ပြသွားသည်မှာ ပိတ်ကားပေါ်မှ ရုပ်ရှင်ကားကောင်းကြီး တစ်ကားကို မျက်စိမမှိတ်ကြည့်နေရသည်ဟု ထင်ရသည်။ အခြားအခြားသော ဂုဏ်ထူးဝိသေသများဖြစ်သည့် ကျမ်းပြုဆရာတို့၏အဓိပတိ၊ မြန်မာစာပေကဗ္ဗဝင်ကျော်၊ မဟာဓမ္မကထိကအကျော်၊ ကမ္ဘာ့ဗုဒ္ဓသာသနာပြုဆရာတော်ကြီး စသည့်ဂုဏ်တော် ကျေးဇူးတော်များကိုလည်း ပြည့်ပြည့်ဝဝကြီး ဖော်ပြထားသည်ကို အားပါးတရဖတ်ရှုရပါသည်။ ဤအကြောင်းအရာများကို စာဖတ်သူကိုယ်တိုင်ခံစားကြည်ညိုနိုင်ရန် ချန်လှပ်ထားပါတော့မည်။

ယခုဆရာတော့်ရင်တွင်းနှလုံးသားအတွင်းသို့ စူးရှနစ်ဝင်သွားသော မိန့်ကြားချက်များ၊ သီဟနာဒ ကေသရာဇာခြင်္သေ့မင်းအလား ဆရာတော်ကြီး ဟိန်းဟောက်ကြွေးကြော်သံများကို ဤစာအုပ်တွင်ဖော်ပြထားသည်တို့မှ ထုတ်နုတ်တင်ပြပါရစေ။

လူ့လောကတွင်ဖြစ်စေ၊ သာသနာလောကတွင်ဖြစ်စေ မိမိကိုယ်တိုင် လောကအထက်တန်းသို့ ရောက်ပါသော်လည်း မိမိနှင့်အလားတူ သားသမီးမျိုး၊ တပည့်မျိုးကို မွေးထုတ်ပေးနိုင်သူမှာ ရှာမှရှားပါသည်။ လယ်တီဆရာတော်ကြီးသည် ဤရှာမှရှားစာရင်းဝင်ဖြစ်၏။ ဆရာတော်ကြီးသည် လူကဲခတ်အလွန်ကောင်း၏။ တပည့်မွေးလည်းကောင်း၏။ အနစ်နာလည်းခံ၏။ အပင်ပန်းလည်းခံ၏။ လွန်စွာလည်း သည်းညည်းခံ၏။

ဆရာတော်ကြီး၏တပည့်များအနက် သေက္ခူတောင်ဦးတိလောကသည် ထိပ်တန်းရဟန်းဖြစ်၏။ လယ်တီပဏ္ဍိတဦးမောင်ကြီးသည် ထိပ်တန်းလူတပည့်ဖြစ်၏။ လယ်တီပဏ္ဍိတသည် ရဟန်းဘဝဖြင့်နေသော် သာသနာ့ဥဿျှောင်ကေန်ဖြစ်မည့်သူဖြစ်၏။ လူ့လောကသို့ရောက်သွားပြန်သော် မြန်မာစာပေလောက၏ မီးရှူးတန်ဆောင်ကြီးပမာ ထွန်းလင်းခဲ့၏။

လယ်တီပဏ္ဍိတဖြစ်မည့် ကိုရင်ပဏ္ဍိစ္စ(နောင်မှဆရာတော်ကြီး ရှင်ပဏ္ဍိတဘွဲ့သို့ပြောင်းပေး) ဆရာတော်ကြီးထံရောက်လာချိန်မှာ အရွယ်အားမငယ်တော့။ ၁၈-နှစ်သားရှိနေပေပြီ။ ဆင်းရဲမွဲတေပြီး မိဘမဲ့ဆွေမျိုးမဲ့အချိန်တွင်ရောက်လာသဖြင့် စက္ခုန္ဒြေချကာ နွမ်းနယ်ညှိုးမှိုင်းနေ၏။ သို့သော် လူကဲခတ်မည့်သောဆရာတော်ကြီးသည် ကိုရင်ကြီးရှင်ပဏ္ဍိစ္စကို လက်ခံလိုက်၏။ ပဏ္ဍိတဟုလည်းဘွဲ့မည်ပြောင်းလိုက်၏။ လအနည်းငယ်ကြာသော် ကိုရင်ကြီး ပဏ္ဍိတအစွမ်းကို သိလာ၏။ ထို့ကြောင့် သံဃာ့ပရိသတ်အလယ်တွင် ပြောင်ပြောင်တင်းတင်းကြီး ဤသို့မိန့်၏။

ပဏ္ဍိတဟာ တကယ့်လူ။ သူများတွေ ၃-၄ နှစ်သင်ရတဲ့စာကို ၃-၄ လနှင့် တတ်နိုင်သည်။ လူနှသလောက် ဉာဏ်ကရင့်ပါပေသည်။ သင်းဆွမ်းမခံစေနှင့်၊ ငါ့ကျောင်းမှာစား၍ စာသင်ရမည်။

ဆရာတော်ကြီးသည် မိမိ၏ဝန်ခံချက်အတိုင်း အခြားခြားသောကိစ္စများကိုဖြတ်တောက်၍ ရှင်ပဏ္ဍိတအား ကိုယ်တော်တိုင် စာသင်ပေးသည်။ ရှင်ပဏ္ဍိတကလည်း သင်ကြားပေးသမျှ မချွင်းမချန်တတ်အောင်သင်ယူသည်။ ဤအတွင်း ရှင်ပဏ္ဍိတက ဆရာသမား၏ကျေးဇူးကို

တုံ့ပြန်ချင်သည်။ ဝတ်ကြီးဝတ်ငယ်ပြုချင်သည်။ ပြုလည်းပြုမိသည်။ ဒါကို ဆရာတော်ကြီးက မကြိုက်၊ စာသင်ပျက်မှာစိုးသည်။ အပြေးကောင်းသော သိန္ဓောမြင်းအား အပြေးရပ်မသွားစေချင်။ ထို့ကြောင့် ဝတ်ကြီးဝတ်ငယ်လာပြုသူပဏ္ဍိတအား–

သွား၊ သွားဟဲ့ ပဏ္ဍိတ။ နင်က ငါ့ကိုလောကွတ်လုပ်မလာနဲ့။ နင့်ကို ဒီဝတ္တရားများအတွက် ငါပြုစုထားတာမဟုတ်ဘူး။ သွား–နောက်ကို ဒီလိုမလုပ်နဲ့။

ဟု တင်းတင်းမာမာကြီးတားမြစ်ပါသည်။ စာရှုသူအရှင်–စာရှုသူမိတ်ဆွေ ဤတွင် ခေတ္တရပ်နား၍စဉ်းစားပါလေ။ အရှင်၏တစ်သက်–သင်၏တစ်သက်တာကာလတွင် ဤလိုဆရာသမားမျိုးတွေ့ဖူးပါလေ၏လော၊ ပြောဆိုသံကြားဖူးပါ၏လော။ ဆရာတော်ကြီးက ဤမျှဖြင့်အားမရ၊ ကျေးဇူးတုံ့ပြန်သည့် ရှင်ပဏ္ဍိတအား 'ဝတ်ကြီးဝတ်ငယ်တွေနဲ့ ကျေးဇူးမတုံ့ပြန်နဲ့၊ ငါ့ကို ကျေးဇူးဆပ်ချင်ရင် စာကိုသာဖိသင်' ဟူသောသဘောဖြင့် ဤသို့တစ်တစ်ခွခွကြီး မိန့်ပြန်ပါသည်။

နင့်မှာ ဖအေလည်းမရှိ၊ မအေးလည်းမရှိ၊ ဆွေမျိုးရှိသော်လည်း အားမကိုးရ၊ ငါ့ကိုသာ နင်အားကိုးရမည်။ နင့်ကိုတစ်သက်လုံး ငါက ကျေးဇူးများဖြင့် ဖုံးအုပ်ထားမည်။ နင်က ငါ့အား ဘာတစ်ခုမျှ မတုံ့ပြန်နဲ့။ စာကိုသာ ကြိုးစားသင်–တဲ့။

မည်မျှမွန်မြတ်သောဆရာပါနည်း။ မည်မျှကြီးရင့်သောဆရာပါနည်း။ မိမိအပေါ်ကျေးဇူးတုံ့ပြန်မှုကို မမျှော်လင့်သောမိဘ၊ မတောင့်တသော ဆရာရှိကောင်းရှိမည်။ သို့သော် တစ်ထောင်မှာတစ်ယောက်၊ တစ်သောင်းမှာတစ်ဦးမျှသာ ရှိနိုင်ပါမည်။ ဤအထဲတွင် ဆရာတော်ကြီးက ရှေ့တန်းမှ ပါဝင်ပါသည်။

ဆရာတော်ကြီးသည် ရှင်ပဏ္ဍိတအား မြှောက်စားလွန်းသဖြင့် အခြားအခြားသောတပည့်များက တီးတိုးစကားပြောကြသည်ကို သိတော်မူပါသည်။ ထိုအခါ မိမိ၏လောကအမြင် (ဒဿန) ကို တပည့်တို့အား ဘွင်းဘွင်းကြီး မိန့်ပြန်သည်။

တပည့်တို့၊ နွားခြံထဲမှာ နွားတွေအမျိုးမျိုးရှိသော်လည်း ဘို့ကောင်းကောင်းနှင့် အားကောင်းသည့်နွားကိုသာ ရွေးချယ်ပြီး ဝ,အောင်ကျွေးမှ ကျေးဇူးခံစားရသည်။ အလျားတိုတို စအိုချွန်းချွန်းနှင့်နွားတို့ကိုကျွေးနေလျှင် မြက်ကုန်ရုံသာရှိသည်။ ကျေးဇူးမခံစားရ။

ဆရာတော်ကြီးသည် ဤသို့သော်စိတ်ထားမျိုးဖြင့်မွေးထုတ်လိုက်သည့် တပည့်များမှာ နိုင်ငံတလွှား ထင်ရှားသူများအဖြစ်သို့ ရောက်သွားကြသည်။ ထင်ရှားသောရဟန်းများမှာ သေကျွံတောင် ဦးတိလောက၊ ကြောင်ပန်းဆည်ကြီးဆရာတော် အရှင်ဣန္ဒက၊ မိုးညှင်းဆရာတော် အရှင်သုမန စသည်တို့ဖြစ်၏။ လူ့လောကသို့ရောက်သွားကြသူများမှာ လယ်တီပဏ္ဍိတ ဆရာဦးမောင်ကြီး (ဦးပဏ္ဍိတ)၊ ဆရာမြို့ (ဦးဝါယမ)၊ လယ်တီဦးလှတင် (ဦးဝဏ္ဏိတ)၊ ပထမကျော် ပုပ္ပါးဦးကျော်ရင် (လယ်တီဦးကောဝိဒ) စသည့်ဆရာကြီးများဖြစ်သည်။

ခြုံ၍ဆိုရသော် လယ်တီဆရာတော်ကြီး၏ဘဝဖြစ်တော်စဉ်စာအုပ်ကြီးသည် ထေရုပ္ပတ္တိ မည်ကာမတ္တမဟုတ်။ ပဒေသရာဇ်ခေတ်နှောင်းနှင့် ကိုလိုနီခေတ်ဦးအစ နှစ်တစ်ရာဝန်းကျင်

ကာလအတွင်း ဖြစ်ပျက်ခဲ့သော မှတ်တမ်းကြီးလည်းဖြစ်၏။ ကြီးကျယ်မြင့်မြတ်သော ပုဂ္ဂိုလ်ကြီးတစ်ပါး၏ ကြီးကျယ်မြင့်မြတ်လှသည့် လုပ်ဆောင်ချက်အဝဝကို ပေါ်လွင်ထင်ဟပ်စေသော ရုပ်ပုံလွှာကားချပ်ကြီးလည်းဖြစ်၏။ ကိုအောင်မွန်သည် ထိုကားချပ်ကြီးကို တစ်နှစ်ပြီးတစ်နှစ် တစ်လွှာပြီးတစ်လွှာ တစ်ဝါပြီးတစ်ဝါ ကြီးကျယ်ဆန်းပြားစွာ ချယ်မှုန်းပြသသွားသည်ကို တွေ့ရပါလိမ့်မည်။

ဝန်ခံစကား ဆိုလိုပါသေးသည်။ ကျမ်းပြုသူ ကိုအောင်မွန်သည် ယခုအခါ အသက်အရွယ်နှင့် ဂုဏ်ဒြပ်အရ ဦးအောင်မွန် ဟု 'ဦး' တပ်၍အခေါ်ခံရသည့်အရွယ်သို့ ရောက်နေပါပြီ။ ခေါ်လည်းခေါ်နေကြပါသည်။ ကျွန်တော်က 'ဦး' မတပ်ဘဲ 'ကိုအောင်မွန်'ဟု ခေါ်ဆိုရေးသားနေခဲ့သဖြင့် တစ်မျိုးထင်ကောင်းထင်ကြပါလိမ့်မည်။ 'ကိုအောင်မွန်'ဟုခေါ်ဆိုရခြင်းမှာ ကျွန်တော်၏ ရင်တွင်းမှဖြစ်ပေါ်လာသော အသုံးဖြစ်ပါသည်။

သူနှင့်ကျွန်တော် အသက်အားဖြင့် နှစ်ပေါင်း ၂၀-တိတိ ကွာလှမ်းပြီး သူ တက္ကသိုလ်ကျောင်းသားဘဝကပင် ခေါ်ဝေါ်ခဲ့သည်သာမက သူ၏အိမ်ထောင်ရေးဘဝ, လူမှုရေးဘဝ, စာပေဘဝတို့တွင် မကွဲမကွာ အစ်ကိုတစ်ယောက်ပမာ လက်တွဲလာခဲ့ရသဖြင့် 'ကိုအောင်မွန်' ဟု ခေါ်လိုက်သုံးလိုက်ရမှ ရင်ထဲမှာ နှစ်နှစ်ကာကာရှိနေ၍ဖြစ်သည်။

ကိုအောင်မွန့်အကြောင်း 'မြတ်စွာဗုဒ္ဓမေတ္တေယျ' တွင် အတော်အတန်ရေးခဲ့ပြီးပါပြီ။ သူ၏ပါရမီဖြည့်ဖက် မသက်သက်ခိုင်၏အကြောင်းကိုကား နာမည်မျှသာဖော်ပြခဲ့ပါသည်။ ယခု သူ့အကြောင်းကိုလည်း ရေးပါရစေ။

ကျွန်တော်က ပါရမီဖြည့်ဖက်ဟုသုံးစွဲခြင်းမှာ သုံးရိုးသုံးစဉ်မျှမဟုတ်ပါ။ ကိုအောင်မွန်သည် စာပေကိစ္စမှတစ်ပါး အခြားစီးပွားရေးကိစ္စ,အိမ်မှုကိစ္စတို့ကို အတော်ပဲဥပေက္ခာပြုသူဖြစ်ပါသည်။ ကိုအောင်မွန်သည် အချိန်ရှိသမျှ စာဖတ်၏။ စာရေး၏။ စာသွေး၏။ တက္ကသိုလ်ကောလိပ် အသီးသီးမှ မဟာဘွဲ့,ဒေါက်တာပါရဂူဘွဲ့အတွက် ကျမ်းတင်သွင်းရေးသူများကို စာရှာပေး၏။ လမ်းညွှန်ပြောပေးနေ၏။ ဤသို့သောလင်ယောကျ်ားမျိုးကို မငြိုမငြင် ကြည်ကြည်ဖြူဖြူ ပေါင်းသင်းဆက်ဆံနေသူ ဇနီးမယားအား ပါရမီဖြည့်ဖက်ဟုဆိုရခြင်းမှာ ပိုမည်မထင်ပါ။ ကိုအောင်မွန်က စာရေး၏။ မခိုင်က စာအုပ်ထုတ်၏။ သူတို့၏စာပေလုပ်ငန်းကြီးသည် ပျော်စရာ,ဂုဏ်ယူစရာဖြစ်၏။ တစ်နည်းဆိုသော် စာပေဖြင့် သာသနာပြုနေကြသူများဖြစ်၏။

သူတို့၏စာပေသာသနာပြုလုပ်ငန်းကြီးသည် ပို၍ပို၍ အောင်မြင်ပါစေ၊ အဓွန့်ရှည်ကြာ သက်ဆုံးတိုင် ဆောင်ရွက်သွားနိုင်ကြပါစေ။

ဦးအောင်ထွတ်
ဓမ္မာစရိယ၊ မဟာဝိဇ္ဇာ
ကထိက (ငြိမ်း)

# စာရေးသူ၏ အမှာစာ

ကောင်းကင်ယံ၌ ညဥ့်အခါ၌ရှိန်းလက်တောက်ပနေသောကြယ်စင်တို့ကို ရေတွက်ခြင်းငှာ မစွမ်းသာကြောင်းသိပြီးဖြစ်သော်လည်း ပုထုဇဉ်တို့သဘာဝ စမ်းသပ်ရေတွက်ကြည့်လိုသည့်နည်းတူ စာရေးသူသည်လည်း အတိအကျမဟုတ် မှန်းဆကြည့်ညိုရုံမျှ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ ဂုဏ်ကျေးဇူးအဝဝတို့နှင့်တကွသော ဘဝဖြစ်တော်စဉ်ထေရုပ္ပတ္တိကို ဖော်ကျူးမိခြင်းဖြစ်ပါသည်။ ဂုဏ်ပေါင်းစုံလင်တော်မူလှသော လယ်တီဆရာတော်ဘုရားကြီး၏ဖြစ်တော်စဉ်ဘဝပုံကားကို ဖော်ကျူးရာ၌ ဆရာတော်ဘုရားကြီး၏တစ်ဘဝတစ်သက်တာကို စာရေးသူတို့အဖို့မှာ တစ်ဘဝတစ်သက်မက လေး,ငါးဘဝ၊ လေး,ငါးသက်မျှ အချိန်ပေးလေ့လာအားထုတ်ရှာဖွေကာ ဆည်းပူးလင့်ကစား လယ်တီဆရာတော်ဘုရားကြီး၏ ပြည့်ဝကုန်စင်သောထေရုပ္ပတ္တိကြီးတစ်စောင် ဖြစ်ပေါ်ဖို့အရေးကား အလွန်တရာမှခဲယဉ်းသောအလုပ်ကြီးတစ်ခု,အရေးကြီးတစ်ရပ်သာဖြစ်လိမ့်မည်ဟု ထင်မြင်မိပါသည်။

ဤအကြောင်းနှင့်စပ်၍ သာဓကတစ်ရပ်ကို ထုတ်ဆောင်ပြပါမည်။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးသည် လယ်တီဆရာတော်ဘုရားကြီးထံတော်ပါး၌ ပဥ္စင်းပျိုဘဝဖြင့်ရှိနေစဉ်အခါက ဆရာတော်ဘုရားကြီး၏ သက်တော်(၆၀)ပြည့် ဝိဇာတမွေးနေ့အခါတွင် ဘုန်းတော်ဘွဲ့ ဂါထာ(၅၀) တို့ကိုစပ်ဆိုပြီးပူဇော်ခဲ့ပါသည်။ ထိုဂါထာပေါင်း (၅၀) တို့တွင် လယ်တီဆရာတော်ဘုရားကြီး ဖွားမြင်တော်မူသည့်အခါမှစ၍ သက်တော်(၆၀)ပြည့် ပြည်မြို့ ဝိပဿနာကုန်းတောရ၌ ဝါကပ်ဆိုတော်မူသည့်အထိ လယ်တီဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိအကျဉ်း ပါရှိသည်။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ စာအရေးကောင်းပုံမှာ လိုက်မီသူမရှိဟုဆိုလောက်အောင် ကောင်းလှသည်ဖြစ်သော်လည်း၊ သူ့ကလောင်စွမ်းဖြင့် လယ်တီဆရာတော်ဘုရားကြီး၏ ဘုန်းတော်ကံတော်တို့ကို ချီးမွမ်းရန် မဝံ့ရဲလေသလောမသိ၊ ဆရာဦးမောင်ကြီးသည် နောက်ထပ်တစ်ဖန် လယ်တီဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိအကြောင်းအရာများကို ရေးသားခဲ့သည်ဟူ၍ မတွေ့ရတော့ပေ။ လယ်တီပဏ္ဍိတဦးမောင်ကြီး သက်ရွယ်ရ၍ နှလုံးရောဂါကြောင့် ၁၉၃၂–ခုနှစ်တွင် မုံရွာမြို့သို့ပြန်ခဲ့ပြီး၊ ဆူးလေကုန်းရပ်၌ မြေဝယ်ကာ အခြေချနေထိုင်သောအခါဝယ် လယ်တီဓမ္မကထိကဦးတိုက်ဝမ်းက ဆရာဦးမောင်ကြီးထံချဉ်းကပ်ပြီးလျှင် 'ဆရာရယ် ကျေးဇူးရှင်ဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိကိုရေးပါ' ဟုတောင်းပန်လေရာ ဆရာဦးမောင်ကြီးက 'မဟာထေရ်မြတ်ကြီး၏ ကြီးကျယ်ထူးမြတ်တဲ့ဂုဏ်တော် ကျေးဇူးတော်တွေကအနန္တမို့ မရေးစွမ်းနိုင်လို့ပါကွယ်' ဟု ပြန်လည်ပြောဆိုခဲ့ဖူးပါသည်။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးကဲ့သို့ နာမည်ကျော်စာပေပညာရှင် ကလောင်ထိပ်တင်ကြီးကပင် 'မရေးစွမ်းနိုင်လို့' ဟု အကြောင်းခံကာ လက်စွမ်းမပြခဲ့သော မြင်းမိုရ်တောင်မက

ဂုဏ်ပေါင်းခ,လျက်ရှိသည့် လယ်တီဆရာတော်ဘုရားကြီး၏ဖြစ်တော်စဉ်ထေရုပ္ပတ္တိကို စာရေးသူကဲ့သို့ မထင်မရှားအညတြအပါကဋသည် အဘယ်မှာလျှင်ပုံဖော်ရေးသားဝံ့ပါမည်နည်း။

ဆက်၍ဆိုပါဦးမည်။ လယ်တီဆရာတော်ဘုရားကြီး ဘဝနတ်နန်းစံမြန်းတော်မူခဲ့သည်မှာ နှစ်ပေါင်း ၈၀–ကာလ ရှည်ကြာခဲ့ပြီဖြစ်ပြီး ဒုတိယကမ္ဘာစစ်စသော စစ်ဘေးစစ်ဒဏ်တို့ကြောင့် ဆရာတော်ဘုရားကြီးနှင့် သက်ဆိုင်သမျှ ရေးသွင်းမှတ်သားထားသော အထောက်အထားအဝဝမှာ မီးသင့်ပျက်စီး ဖရိုဖရဲအပြိုပြိုကွဲကာ ရှာမရအောင် ရှားပါးခဲ့ရပြီဖြစ်ပါသည်။ ဤအချက်နှင့်စပ်၍ အေဒီ ၁၉၇၄–ခုနှစ် မန္တလေးဝိဇ္ဇာနှင့်သိပ္ပံတက္ကသိုလ်၊ သမိုင်းဌာနတွင် မဟာဝိဇ္ဇာဘွဲ့အတွက် 'ပထမလယ်တီဆရာတော်ဘုရားကြီး၏ စွမ်းဆောင်ချက်များသမိုင်း' ကျမ်းကို ပြုစုတင်သွင်းခဲ့သူ ဆရာမဒေါ်စန်းမြမြသည် ယင်းကျမ်းပြုစုရန်အတွက် အလိုရှိသောအချက်အလက်များကို ရှာဖွေသောအခါ အဟုတ်ရှာမှုရှားပါးကြောင်းသိရပုံတို့ကို အောက်ပါအတိုင်းရေးသားခဲ့ပေသည်။

'ဤကျမ်းကိုပြုစုရာ၌ မူရင်းအထောက်အထား, တစ်ဆင့်ခံအထောက်အထား နှစ်မျိုးကို အသုံးပြုခဲ့ရပါသည်။ အထောက်အထားများရရှိရန်အတွက် မုံရွာမြို့ လယ်တီတိုက်သို့လည်းကောင်း၊ ဆရာတော်ဘုရားကြီး၏ မွေးဖွားရာဇာတိဖြစ်သော ရွှေဘိုခရိုင် ဒီပဲယင်းမြို့ စိုင်ပြင်ရွာ လယ်တီကျောင်းတိုက်သို့လည်းကောင်း အားထား၍ သွားရောက်ခဲ့သော်လည်း မုံရွာလယ်တီကျောက်စာတိုက်မှအပ မုံရွာမြို့ကို မီးကြီးလောင်စဉ်က လယ်တီတိုက်များတွင်ရှိသော ဆရာတော်ဘုရားကြီး၏ မူရင်းအထောက်အထားများ ပျက်စီးသွားခဲ့ကြောင်းကိုသာ သိခဲ့ရပါသည်။ စိုင်ပြင်ရွာလယ်တီကျောင်းတွင်လည်း မူရင်းအထောက်အထားဟူ၍ ဆရာတော်ဘုရားကြီး နယ်လှည့်တရားဟောထွက်ရာ၌ ယူလေ့ရှိသော ဒီပနီကျမ်းများနှင့် ၎င်းတို့ကိုရေးရန် အသုံးပြုသည့် စာရေးကိရိယာထည့်ယူသည့် စာတိုက်သေတ္တာငယ် (ကျွန်းသားနှင့် ပြုလုပ်ထားသည့်) တစ်ခုကိုသာတွေ့ရပါသည်။ ၎င်းလယ်တီကျောင်းတိုက်နှင့် မနီးမဝေးတွင်ရှိသော ဆရာတော်ဘုရားကြီး၏ ချက်မြှုပ်ရာ အမိအဘတို့၏အိမ်နေရာမြေကို သီးသန့်မြေယာအကွက်ရိုက်ထားခြင်းနှင့် ဆရာတော်ဘုရားကြီး၏ ပုံတူရုပ်တုတစ်ဆူထုလုပ်ထားသည်ကိုသာ တွေ့ခဲ့ရပါသည်။ လယ်တီတိုက်များမှ အားထားသလောက် မူရင်းအထောက်အထားများ မရရှိခဲ့ကြောင်း'–ဟူ၍ဖြစ်သည်။

ဤအချက်ကို ထောက်ချင့်ခြင်းအားဖြင့် လယ်တီဆရာတော်ဘုရားကြီး၏ ဘုန်းတော်ကံတော်ဂုဏ်ကျေးဇူးတော်တို့ကို ပြည့်ပြည့်ဝဝစုံစုံလင်လင်တင်ပြနိုင်ရန်အတွက် အထောက်အထားအချက်အလက်များစွာလိုအပ်ကြောင်းနှင့် ထိုအရေးပါသောအချက်အလက်အထောက်အထားတို့မှာလည်း ရှာဖွေရခက်ခဲ လွန်စွာမှရှားပါးနေပြီဖြစ်ပါ၍ ယင်းအချက်အလက်တို့ကိုမရရှိခဲ့လျှင်လည်း မည်သည့်နည်းနှင့်မျှ လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်ထေရုပ္ပတ္တိကို ကျစ်ကျစ်လျစ်လျစ်ခိုင်ခိုင်မာမာတင်ပြနိုင်လိမ့်မည်မဟုတ်ကြောင်းပင်ဖြစ်သည်။

ဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိကိုရေးသားကြရာ၌ ဆရာတော်ဘုရားကြီးနှင့် ဆက်စပ်မိသူ,သိမီလိုက်သူတို့ကိုတွေ့ဆုံမေးမြန်းရန်အရေးမှာလည်း များစွာအရေးကြီးသောအချက်ဖြစ်ပေသည်။ ဤအချက်နှင့်စပ်၍ကား ဆရာမဒေါ်စန်းမြမြသည် အဘိဓမ္မစိုးရိမ်ဆရာတော်ဘုရားကြီး ဦးသုရိယ၊ ပျဉ်းမနားလယ်တီစံကျောင်းဆရာတော် ဦးဥေယျ၊ ဦးကျော်ရန်၏သမီး ဒေါ်ထားထား၊ မန္တလေးမြို့ အရှေ့ပြင် မိဘမဲ့ကျောင်းဆရာတော် ဦးပဝရ၊ သထုံမြို့ ဆရာကြီး လယ်တီဦးလှတင်– စသည့်ပုဂ္ဂိုလ် လေး,ငါးဦးကိုသာ တွေ့ဆုံ၍မေးမြန်းခဲ့ရကြောင်း သူ၏ကျမ်း၌ ဖော်ပြထားပါသည်။ ထို့အတူ အေဒီ ၁၉၈၂–ခုနှစ် ရန်ကုန်ဝိဇ္ဇာနှင့်သိပ္ပံတက္ကသိုလ် မြန်မာစာဌာနတွင် မဟာဝိဇ္ဇာဘွဲ့အတွက် 'လယ်တီဆရာတော်၏ ဘဝနှင့်စာပေ' ကျမ်းကိုပြုစုတင်သွင်းခဲ့သူ ဆရာမဒေါ်ညိုညိုစိုးသည်လည်း မိမိ၏ကျမ်းအတွက် လယ်တီဆရာတော်ဘုရားကြီးအား သိမီလိုက်သူ လေး,ငါးဦးကိုပင် တွေ့ဆုံမေးမြန်းခဲ့ကြောင်း ဖော်ပြထားပြန်ပါသည်။ လယ်တီဆရာတော်ဘုရားကြီး ဘုန်းကံကြီးမားတော်မူစဉ်က တစ်နိုင်ငံလုံးညွတ်ရုံးခယပူဇော်ခဲ့ကြသော်လည်း ထိုကာလမှသည် အနှစ် ၄၀,၅၀,၆၀ စသည့်ကြာမြင့်လာသောအခါ၌ ဆရာတော်ဘုရားကြီးအားဖူးမြင်ခွင့်ရခဲ့သူ၊ ဆရာတော်ဘုရားကြီးထံတော်ပါး ဆည်းကပ်ခိုလှုံခွင့်ရခဲ့သူ ရှင်လူပုဂ္ဂိုလ်တို့မှာ ရှာမှရှားကာ တွေ့ဆုံရဖို့အရေးမှာ အလွန်ခဲယဉ်းသောအဖြစ်သို့ ရောက်ရှိခဲ့ရပါသည်။

ဤသို့ သံဃပိတာ, သံဃပရိဏာယကဖြစ်တော်မူသော လယ်တီဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိနှင့်စပ်၍ အထောက်အထားကရှားပါး၊ သိမီပြောပြမည့်ပုဂ္ဂိုလ်ကနည်းပါးသဖြင့် ရေးသားပြုစုရန်ခဲယဉ်းပါလျက် အဘယ်သို့အကြောင်းကြောင့် စာရေးသူသည် လယ်တီဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိကိုရေးဖွဲ့ရန် ကြိုးစားရပါသနည်းဟုမေးပါက စာရေးသူလည်း ဤသို့သော အကြောင်းကိစ္စများကို ရေးသားရန်အစပြုစဉ်က တိတိပပမသိခဲ့ရဘဲ၊ လယ်တီဆရာတော်ကြီး၏ အကြောင်း ရေးသားထားသော စာပေအထောက်အထားများ ရှားပါးလိမ့်မည်၊ သိမီသူ ပြောပြနိုင်သူ နည်းပါးလိမ့်မည် စသောအချက်တို့ကိုလည်း မစဉ်းစားမိရိုးအမှန်ဖြစ်ပါသည်။ ထိုအချက်တို့ကို ဤကျမ်းစာကို စတင်ရေးသားရန်ပြင်ဆင်စဉ်အခါမှစ၍ တစ်စတစ်စသိခဲ့ရပါသည်။ စင်စစ်အားဖြင့် စာရေးသူအဖို့မှာ လယ်တီဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိရေးသားရန်ဟူသော အခွင့်အရေးကို ကျေးဇူးရှင်ဆရာသမားမိဘဘိုးဘွားတို့က လမ်းခင်းပေးခဲ့ကြသဖြင့်သာ ယခုလိုဝင်ရောက်ရေးသားခဲ့ရခြင်းဖြစ်ကြောင်း ဦးစွာတင်ပြလိုပါသည်။

စာရေးသူကို 'လယ်တီ' ဟူသောဝေါဟာရနှင့် 'လယ်တီဆရာတော်ကြီး'၊ 'လယ်တီပဏ္ဍိတ' ဟူသောဘွဲ့အမည်တို့ကို ရှေးဦးမိတ်ဆက်ပေးသူမှာ အဘွားဒေါ်ဒေါ်တာ ဖြစ်ပါသည်။ အဘွား၏ ပြောပြချက်များအရ စာရေးသူ၏အဘွားသည် လယ်တီဆရာတော်ဘုရားကြီးကို သိမီလိုက်ပြီး သံခိပ်ခေတ်ကောင်းစဉ်က သံခိပ်အသင်းသူတစ်ဦးဖြစ်ခဲ့ကြောင်း၊ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး ရဟန်းဘဝမှာရှိစဉ်ကပင် ဆရာဦးမောင်ကြီးထံမှာ သံခိပ်သင်ယူဖူးကြောင်းနှင့် လယ်တီတရား သတင်းစာထုတ်ဝေသော လယ်တီဦးလှတင်ကိုလည်း လယ်တီဆရာတော်ဘုရားကြီးနောက်တော်ပါးက လိုက်ပါလာသော လယ်တီဦးဝဏ္ဏိတအဖြစ်နှင့် ဆည်းကပ်ခွင့်ရခဲ့ကြောင်းတို့ကို ပြောပြ

ပါသည်။ လယ်တီတရားသတင်းစာထုတ်ဝေသောအခါ အဘွားဒေါ်ဒေါ်တာက မော်လမြိုင်မြို့တွင် တရားသတင်းစာဖြန့်ချိရေးတာဝန်ကိုယူ၍ လယ်တီသာသနာပြန့်ပွားရန် ဆောင်ရွက်ပေးခဲ့ပါသည်။ စာရေးသူ အလယ်တန်းကျောင်းဘဝ စာပေဝါသနာပါစ,အခါက ရှေးဦးဖတ်ရှုရသောစာပေတို့မှာ အဘွားစုဆောင်းထားသည့် ဆရာဦးမောင်ကြီး၏ ထေရီမြန်မာပြန်,ထေရာမြန်မာပြန်, နီတိမဉ္ဇရီ စသောစာပေများသာဖြစ်ပြီး လယ်တီတရားသတင်းစာများကိုလည်း ထိုစဉ်အခါကပင် ရင်းနှီးကျွမ်းဝင်ခဲ့ရခြင်းဖြစ်ပါသည်။ ဤစာအုပ်ပြုစုရန် အေဒီ ၁၉၈၄–ခုနှစ်က မုံရွာမြို့ သာစည်လမ်း၊ ဆူးလေကုန်းရှိ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ဇနီး ဒေါ်ဒေါ်အေးထံရောက်ရှိခဲ့ရာတွင် အဘွားဒေါ်အေးက စာရေးသူကို မော်လမြိုင်က ဒေါ်ဒေါ်တာ၏မြေးမှန်းသိလျှင်ပင် သူ့အိမ်ထောင့်တစ်နေရာသို့ခေါ်သွားပြီး ကြွေပန်းအိုးကြီးတစ်လုံးကိုပြကာ 'ဒီပန်းအိုးပေါ့၊ ဆရာ(ဆရာဦးမောင်ကြီး) မော်လမြိုင်ကပြန်လာတော့ မင်းအဘွားမမတာ ပေးလိုက်တာ၊ ဆရာက ဒီအထိသယ်လာတယ်' ဟု စာရေးသူ၏အဘွားနှင့် ဆရာဦးမောင်ကြီးတို့၏ ရင်းနှီးခင်မင်ကြပုံတို့ကို ပြောပြဖူးပါသည်။

စာရေးသူဖခင်မှာ အဘိုးအဘွားလက်ထက်ကပင် လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးနှင့် ရင်းနှီးသည့်အတိုင်း ရန်ကုန်ကောလိပ်ကျောင်းသားဘဝတွင် ရန်ကုန်မြို့ ဆိပ်ကမ်းသာလမ်း၌ ဆရာဦးမောင်ကြီးသည် ပထမဇနီးဒေါ်မမကြီးကွယ်လွန်၍တစ်ဦးတည်းနေထိုင်စဉ်အခါက အတူနေတပည့်ရင်းဖြစ်ခဲ့ပါသည်။ ဆရာဦးမောင်ကြီး ဒုတိယအိမ်ထောင်ဒေါ်ဒေါ်အေးနှင့်လက်ဆက်သောအခါ ဝေယျာဝစ္စအားလုံး ဖခင်ကသာဆောင်ရွက်ပေးခဲ့သည်။ စာရေးသူ မုံရွာတွင် အဘွားဒေါ်ဒေါ်အေးနှင့်ဆုံသောအခါ အဘွားက 'မင်းအဖေ မောင်သန်းက' ဟူ၍၊ ဆရာဦးမောင်ကြီးနှင့် ဒေါ်ဒေါ်အေးတို့၏သမီး ဒေါ်တင်ဦးကလည်း 'ကိုကိုသန်း' ဟူ၍ ရင်းရင်းနှီးနှီးခေါ်ခဲ့ပါသည်။ ဆရာဦးမောင်ကြီးကလည်း စာရေးသူ၏ဖခင်အိမ်ထောင်ပြုသည့်အခါ မော်လမြိုင်သို့ကြွလာပြီး မင်္ဂလာရတုပိုဒ်စုံကို ရေးသားချီးမြှင့်ပါသည်။ ထိုရတုပိုဒ်စုံကို ဆရာကြီးလယ်တီဦးလှတင်က ဖတ်ကြားပေးပါသည်။*၁ ဆရာဦးမောင်ကြီး မုံရွာတွင်ကွယ်လွန်သော် ထိုအချိန်၌ ဖခင်မှာ တို့မြန်မာအစည်းအရုံးဝင်သခင်ဖြစ်နေပြီဖြစ်၍ ဆရာကြီးသခင်ကိုယ်တော်မှိုင်းနှင့်အတူ မုံရွာသို့သွားကာ ဆရာသမား၏နောက်ဆုံးခရီးကို ပို့ဆောင်ဂါရဝပြုခဲ့ပါသည်။ ဤသို့လျှင် မိခင်ဖခင်တို့မှာ ဆရာဦးမောင်ကြီး၏တပည့်ရင်းများဖြစ်သည့်အလျောက် စာရေးသူ စာပေဗဟုသုတလိုက်စားသော အထက်တန်းကျောင်းသားဘဝတွင် သထုံမြို့နေ ဆရာကြီးဦးလှတင် (လယ်တီဦးဝဏ္ဏိတ)ထံ ခေါ်သွားပြီး မိတ်ဆက်ပေးခဲ့ပါသည်။ စာရေးသူမှာ လယ်တီမဟာထေရုပ္ပတ္တိကျမ်းပြုဘိုးဘိုးကြီး လယ်တီဦးလှတင်နှင့် တွေ့ဆုံခွင့်ရသည့်အချိန်မှစ၍ လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်အကြောင်းအရာများကို ကျယ်ကျယ်ဝန်းဝန်းသိရှိမှတ်သားရခဲ့ပါသည်။ ဆရာတော်ဘုရားကြီးအကြောင်း စာတစ်အုပ်အနေဖြင့် ရေးသားရန်ကိုကား ထိုစဉ်ကရည်ရွယ်ချက်မရှိခဲ့ပါ။ ဗဟုသုတအနေဖြင့် မှတ်သားစုဆောင်းခဲ့ခြင်းမျှသာဖြစ်ပါသည်။

---

*၁ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ကဗျာမဉ္ဇရီကျမ်း။ (စာမျက်နှာ–၉၆) တွင်ရှုပါ။

စာရေးသူအထက်တန်းကျောင်းသားဘဝကိုကျော်လွန်၍ မန္တလေးဝိဇ္ဇာနှင့်သိပ္ပံတက္ကသိုလ်၊ အရှေ့တိုင်းပညာ(ပါဠိဌာန)ဌာနတွင် ပညာဆည်းပူးနေစဉ် အေဒီ ၁၉၇၄–ခုနှစ် ဇူလိုင်လအတွင်း အရှေ့တိုင်းပညာဌာနသို့ မဟာဝိဇ္ဇာတန်းသားများကိုစစ်မေးရန် ပြင်ပစာစစ်ပုဂ္ဂိုလ်သတင်းစာ ဆရာကြီးဦးသိန်းဖေမြင့်ရောက်ရှိလာပါသည်။ ဆရာဦးသိန်းဖေမြင့်က စာစစ်ပွဲပြီးသည့်နောက် 'မနက်ဖြန် မိမိမွေးနေ့ဖြစ်၍ အမရပူရတောင်သမန်အင်းစောင်းရှိ ဦးပညာဇောတ၏တောင်လေးလုံး ကျောင်းတွင် ထမင်းစားပွဲပြုလုပ်မည်၊ လိုက်ခဲ့' ဟု စာရေးသူကိုခေါ်သည့်အတွက် ဆရာနှင့်အတူ အမရပူရသို့လိုက်ခဲ့ရပါသည်။ ထမင်းစားပြီးကြသော် ဆရာဦးသိန်းဖေမြင့်၊ ဆရာဦးမောင်မောင်တင် (မဟာဝိဇ္ဇာ)တို့ တောင်လေးလုံးကျောင်းအနီးရှိ မဟာဂန္ဓာရုံကျောင်းတိုက်ဆရာတော် အရှင်ဇနကာ ဘိဝံသထံတော်သို့ သွားရောက်ဦးခိုက်ကြရာ စာရေးသူလည်း လိုက်ပါခဲ့ရပြန်ပါသည်။

မဟာဂန္ဓာရုံဆရာတော်ကြီးနှင့် ဆရာကြီးနှစ်ဦးတို့ သာသနာရေးအကြောင်း၊ စာပေ အကြောင်း၊ ကျန်းမာရေးအကြောင်း–စသည်ထွေထွေရာရာတို့လျှောက်ထားပြောဆိုနေကြစဉ် ပရလောကအကြောင်းသို့ရောက်ရှိသွားလေရာ ဆရာတော်ကြီးက စာရေးသူဘက်သို့လှည့်ပြီး 'မင်းရော ပရလောကယုံရဲ့လား'ဟု အမေးရှိတော်မူပါသည်။ 'ယုံပါသည်ဘုရား'ဟု လျှောက်ထား လျှင် ဆရာတော်ကြီးက 'ယခုခေတ်လူငယ်များသည် ခေတ်ပညာတတ်ဖြစ်ကြသည့်အလျောက် လက်တွေ့မှယုံချင်ကြသည်၊ ပရလောကကိုလည်း လက်တွေ့စမ်းသပ်ခွင့်မရလျှင် ယုံကြည်ကြမည် မဟုတ်' ဟု အမိန့်ရှိတော်မူပါသည်။

ထိုစဉ်ဆရာဦးမောင်မောင်တင်က ဆရာတော်ကြီးအား စာရေးသူသည် ပရလောက ယုံကြည်ကြောင်းနှင့် တစ်ဆက်တည်းပင် လယ်တီဆရာတော်ဘုရားကြီး၏ နိုင်ငံခြားသာသနာပြု အသင်းအကြောင်း ရှာဖွေရေးသားနေကြောင်းတို့ကိုပါ ပြောဆိုလျှောက်ထားရာ မဟာဂန္ဓာရုံ ဆရာတော်ကြီးက 'လယ်တီဆရာတော်ကြီးအကြောင်းထေရုပ္ပတ္တိဟူ၍ ပြည့်ပြည့်စုံစုံမရှိသေး၍ ပြုစုကြရန်လိုအပ်ကြောင်း၊ လယ်တီဆရာတော်ကြီး၏သာသနာရေးဆောင်ရွက်ချက်များသည် ရေတွက်မကုန်အောင် မြားမြောင်လှသော်လည်း မှတ်မှတ်သားသားမရှိခဲ့ကြ၊ မှတ်သားမိသမျှ သည်လည်း စစ်ဘေးစစ်ဒဏ် စသည်တို့ကြောင့် ပျောက်ပျက်ကုန်ကြပြီဖြစ်ရာ နောင်အခါ အတော်ပြန်၍စုဆောင်းရတော့မည်ဖြစ်ကြောင်း' မိန့်ကြားတော်မူပါသည်။

ဆရာကြီးဦးသိန်းဖေမြင့်က စာရေးသူကို နိုင်ငံခြားသာသနာပြုအသင်းကြီးအကြောင်းကိုသာ မက လယ်တီဆရာတော်ကြီး၏ သာသနာရေးဆောင်ရွက်ချက်များကို ပြည့်ပြည့်စုံစုံဖြစ်အောင် စုဆောင်းရန်တိုက်တွန်းပါသည်၊ ဆရာကြီးက သူသည် လယ်တီဆရာတော်ကြီး၏ဇာတိ စိုင်ပြင်နှင့် တစ်စပ်တည်းတည်ရှိနေသော ဘုတလင်နယ်သားဖြစ်၍ များစွာကူညီနိုင်မည်ဖြစ်ကြောင်း၊ နောက်တစ်ကြိမ် မန္တလေးသို့လာလျှင် ဘုတလင်၊ ဒီပရင်းသို့လိုက်ပို့ပေးမည်ဖြစ်ကြောင်းပြောကြားပြီး 'လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ္တိကို ထိထိရောက်ရောက်ပြုစုပါ'ဟု အလေးအနက်မှာကြားခဲ့ ပါသည်။ ဆရာတော်ကြီးအရှင်ဇနကာဘိဝံသကလည်း စာရေးသူအား ဆရာဦးသိန်းဖေမြင့် ပြောဆိုမှာကြားနေသည်တို့ကို နှစ်လိုဝမ်းမြောက်သောအမူအရာဖြင့် နားစိုက်နေတော်မူခဲ့ပါသည်။

စာရေးသူမှာ ထိုစဉ်က အသိပညာသေးငယ် အတွေ့အကြုံနုနယ်ပြီး အတ္ထုပ္ပတ္တိစာပေ ရေးသားပြုစုခြင်း၏ခက်ခဲနက်နဲပုံကို မသိနားမလည်သေးသည့်အလျောက် မဟာဂန္ဓာရုံဆရာတော်ကြီးနှင့် ဆရာဦးသိန်းဖေမြင့်တို့ကဲ့သို့ စာပေရှေ့ဆောင်ပုဂ္ဂိုလ်ကြီးများ၏ ပေးအပ်သောတာဝန်ဖြစ်သော ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိပြုစုရေးလုပ်ငန်းကို မဖြစ်မနေ ဆောင်ရွက်မည်ဟုဆုံးဖြတ်ခဲ့မိလေသည်။ ဤသည်တို့ကား လယ်တီဆရာတော်ကြီး၏ ထေရုပ္ပတ္တိ ပြုစုရန် သန္နိဋ္ဌာန်ချခဲ့ပုံဖြစ်ပါသည်။

ထို့နောက်၌ လယ်တီဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိစာအုပ်ရေးဖြစ်ရန် တိုက်တွန်းမှုနိုင်မာသောဆုံးဖြတ်မှုများပါ တစ်ဆက်တည်းဖြစ်ပေါ်လာခဲ့ပုံတို့ကိုဆက်လက်ရေးတင်ပြပါဦးမည်။ မဟာဂန္ဓာရုံဆရာတော်ကြီးအား ဦးတင်ပြီး တောင်လေးလုံးကျောင်းသို့ပြန်ကြသောအခါ တောင်လေးလုံးကျောင်းရှေ့တွင် ဂျစ်ကားတစ်စီးရပ်ထားပြီး ထိုကားပေါ်၌ဘုန်းတော်ကြီးနှစ်ပါးကို ဖူးတွေ့ရသည်။ ထိုဘုန်းတော်ကြီးနှစ်ပါးမှာ မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံတိုက်သစ်မှ စာချဘုန်းတော်ကြီး ဦးမာနိတသိရီဘိဝံသ(ယခုနိုင်ငံတော်သံဃမဟာနာယကအဖွဲ့ဝင် အဂ္ဂမဟာပဏ္ဍိတ သူဌေးတန်းကျောင်းဆရာတော်ကြီး) နှင့် စစ်ကိုင်းမြို့ သုဓောဓာရုံတိုက်မှ စာချဘုန်းတော်ကြီး ဦးနန္ဒမာလာဘိဝံသ (ယခုအပြည်ပြည်ဆိုင်ရာထေရဝါဒဗုဒ္ဓတက္ကသိုလ်ပါမောက္ခချုပ် ဒေါက်တာနန္ဒမာလာဘိဝံသ ဆရာတော်ကြီး)တို့ဖြစ်ပါသည်။ ထိုဘုန်းတော်ကြီးနှစ်ပါးနှင့်အတူ မန္တလေးသို့ပြန်ခဲ့ပြီး မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံတိုက်သစ် မင်္ဂလာဗိမာန်အုတ်ကျောင်းဘုန်းကြီးဦးပညာသိရီဘိဝံသ (အဂ္ဂမဟာပဏ္ဍိတ)ထံရောက်ရှိကြကာ စာရေးသူက တောင်မြို့၌တွေ့ကြုံခဲ့ရသော ထိုနေ့အကြောင်းအရာများနှင့် လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ္တိပြုစုရန်ကိစ္စတို့ကို လျှောက်ထားခဲ့ပါသည်။ ထေရုပ္ပတ္တိ စာပေအရေးအသား၌ အလေ့အလာရှိတော်မူကြသော ဘုန်းကြီးဦးမာနိတနှင့် ဦးနန္ဒမာလာတို့က အလွန်လိုလားသောစိတ်ဆန္ဒအမူတို့ဖြင့် 'ရေးပေါ့ကွ' ဟု အားရဝမ်းသာတိုက်တွန်းမိန့်ကြားတော်မူကြသည်။ မိမိတို့ စံကင်းဆရာတော်ဘုရားကြီး၏ ဂုဏ်ရုပ္ပတ္တိကထာရေးစဉ်က အတွေ့အကြုံအဖြစ်အပျက်များကိုလည်း မိန့်ကြားတော်မူကြပါသည်။

ဤတွင်ပင် မိမိကလယ်တီဆရာတော်ကြီးအကြောင်းရေးသားရန်တာဝန်ယူသကဲ့သို့ ဘုန်းတော်ကြီးဦးနန္ဒမာလာဘိဝံသက ရွှေကျင်ဆရာတော်ဘုရားကြီးအကြောင်းနှင့် ဘုန်းတော်ကြီးဦးမာနိတသိရီဘိဝံသက မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးအကြောင်း ရေးသားကြမည်ဟူ၍ ထိုအခါကစ၍ တိတိကျကျဝေခွဲ တာဝန်ယူဖြစ်ခဲ့ကြပါသည်။*၁

ထိုအစဉ်အခါက စာရေးသူမှာ လူထုတိုက်၌နေ၍ ကျောင်းတက်နေသည်ဖြစ်ရာ စာရေးသူ၏ လယ်တီဆရာတော်ကြီးဘဝဖြစ်တော်စဉ်စာအုပ်ပြုစုရန် စုဆောင်းနေသောသတင်းသည် ဒေါ်ဒေါ်လူထုဒေါ်မာထံရောက်ရှိသွားပြီး၊ ဒေါ်ဒေါ်က လယ်တီတရားသတင်းစာပေါင်းချုပ်နှစ်တွဲ၊

---

*၁ ဆရာတော်ဦးမာနိတသိရီဘိဝံသသည် သက္ကရာဇ် ၁၃၅၅–ခုနှစ် ရွှေကျင်ဂိုဏ်းရာပြည့်ပွဲကြီးကျင်းပသောအခါ ရွှေကျင်ဆရာတော်ကြီးအကြောင်းကို ဆရာတော်ဦးနန္ဒမာလာထံမှလွှဲယူ၍ရေးသားတော်မူပါသဖြင့် ယခုအခါ ပုံနှိပ်မှုသို့ရောက်ရှိခဲ့ပြီ ဖြစ်ပါသည်။

လယ်တီပဏ္ဍိတနှင့်စပ်၍ မဂ္ဂဇင်း,စာစောင်တို့မှ ဖြတ်တောက်သိမ်းဆည်းထားသော ဆောင်းပါးများ*[၁] ထည့်ထားသည့် စာအိတ်ကြီးတစ်အိတ်၊ လယ်တီတရားသတင်းစာအကြောင်း လက်ရေးကော်ပီ တစ်ပိုင်းတစ်စ၊ မင်းကွန်းဂူကလေးချောင်ဆရာကြီးဒေါ်ဓမ္မစာရီနှင့်တွေ့ဆုံမေးမြန်းစဉ်က မှတ်သားထားသည့်မှတ်စုစာအုပ် (ထိုစာအုပ်တွင် လယ်တီဆရာတော်ကြီးအကြောင်းပါဝင်သည်) စသည်တို့ကို စာရေးသူအားပေးအပ်ကာ 'ရော့–ဒါ မင်းအတွက်ပဲ၊ မင်းက လယ်တီဆရာတော်ကြီး အကြောင်းရေးမလို့ဆို' ဟုပြောဆိုခဲ့ပါသည်။

ထိုအချိန်မှစ၍စာရေးသူသည် ဒေါ်ဒေါ်လူထုဒေါ်အမာထံမှ အတ္ထုပ္ပတ္တိရေးသားပုံကို နည်းယူဆည်းပူးခဲ့ရပါသည်။ ဒေါ်ဒေါ်သည် အတ္ထုပ္ပတ္တိစာပေရေးနည်းပညာ၌ ကျွမ်းကျင်နိုင်နင်းသည်မှာ ယနေ့ မြန်မာစာပေလောက၌ အထင်အရှားဖြစ်ပါသည်။ ဒေါ်ဒေါ်က စကားစပ်လာလျှင် 'ငါတို့ဘယ်သူ့အကြောင်းရေးတုန်းက' ဟုအစချီကာ အဖြစ်အပျက်အချို့ကိုပြောပြလေ့ရှိပါသည်။ ရွှေရိုးဘကလေးရေးစဉ်ကအတွေ့အကြုံများ၊ ရွှေမန်းတင်မောင်အကြောင်းရေးစဉ်ကအတွေ့အကြုံများ– စသည်ဖြင့် အတ္ထုပ္ပတ္တိရေးခြင်းဆိုင်ရာ အတွေ့အကြုံကိုပြောပြသည်မှာ နာ၍မငြီးနိုင်အောင် ဖြစ်ပါသည်။

လယ်တီဆရာတော်ကြီးအကြောင်းရေးသားရန်ကြိုးပမ်းနေခြင်းအတွက် ဒေါ်ဒေါ်သည် အစဉ်အားပေးနေလေ့ရှိပြီး၊ ရံဖန်ရံခါ ထိုကိစ္စကို စာရေးသူမဆောင်ရွက်ဘဲနေသည်ဟုအထင်ရှိသော အခါ၌ မန္တလေးမြို့ကနေ 'မင်းလယ်တီဆရာတော်လဲ ခုထက်ထိဘာသံမှမကြားရပါလား၊ သူများရေးတာ ထွက်ကာနီးပြီကြားတယ်၊ ကိုယ့်မှာအကြာကြီးအချိန်ယူထားတာပဲဟာ၊ ဘာလို့အဆုံးမသတ်ဘဲ သူများကိုအခွင့်အရေးပေးမလဲ၊ ကိုတင်ဟိန်း(မောင်မဲ)လဲ မင်းကိုကူမယ်လို့ဆို၊ မြန်မြန်ထွက်နိုင်အောင်လုပ်ပါတော့လား၊ အီးရောအီးရောလုပ်မနေနဲ့ မင့်ဟာဘယ်လောက်ကြီး ကောင်းကောင်း လက်ဦးမှုမရတာ နာမှာပဲ၊ စာအုပ်မြန်မြန်ထွက်အောင်လုပ်ပါ'*[၂] စသည် စာဖြင့်ရေးသား နှိုးဆော်လေ့ရှိပါသည်။ ရံခါကိုယ်တိုင်သာမက ဆရာတော်ဦးမာနိတထံမှတစ်ဆင့်လည်း တိုက်တွန်းပါသည်။ ဆရာတော်ဦးမာနိတထံမှ (၄၅၊ နတ်ဆုတ်–၆) ရက်စွဲဖြင့် ပေးပို့သောစာတွင် 'လယ်တီဆရာတော် အပြီးသတ်ဖို့အခွင့်တွေးမိ၍ ဝမ်းသာမိ၏။ ဒေါ်အမာကလဲ တိုက်တွန်းပေးပါဟု ပြော၏။ ဖြစ်သင့်နေပြီ' စာတစ်ကြောင်းပါလာသည်။ ဒေါ်ဒေါ်တိုက်တွန်းသည့်အတိုင်း စာရေးသူသည် ဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိကို ရေးကောင်းကောင်းနှင့်ရေးမိ၍ စာမျက်နှာ ၇၀၀,၈၀၀ မကများပြားလာပြီး ပြန်လည်တည်းဖြတ်သောအခါ ဟိုအချက် မဖယ်ရက်, ဒီအချက်မပြစ်ရက်၊

*[၁] ထိုစာအိတ်ကြီးကို ဒေါ်ဒေါ်က လယ်တီဆရာတော်ကြီးအကြောင်း သီးသန့်စုဆောင်းထားသော စာအိတ်ဟုထင်၍ ပေးခြင်းဖြစ်သည်။ စာရေးသူက 'လယ်တီပဏ္ဍိတ ဆရာဦးမောင်ကြီးအကြောင်းတွေ ဒေါ်ဒေါ်ရဲ့' ဟုပြောပြသောအခါ 'ငါက လယ်တီဆရာတော်ကြီးအကြောင်းမှတ်လို့၊ အဲဒါတွေဟာ ငါတို့ဆရာကြီး ဒေါ်ဓမ္မစာရီနဲ့တွေ့တုန်းက မေးထားတာတွေကွယ့်၊ လယ်တီဆရာတော်အကြောင်းမဟုတ်လဲ မင်းဘဲသိမ်းထားလိုက်ပါ၊ တို့လိုတော့လဲ ကြည့်နိုင်တာပေါ့'ဟု ရယ်မောပြီးပြောပါသည်။

*[၂] ဒေါ်ဒေါ်လူထုဒေါ်အမာ၏ (၄–၂–၈၆) ရက်စွဲပါစာမှ ကောက်နုတ်ချက်ဖြစ်သည်။

ချိတုံချတုံဖြစ်နေသည့်အချိန် စာရေးသူအားရည်ညွှန်း၍ မန္တလေးမြို့နယ်အသင်းစာစောင်တွင် 'အတ္ထုပ္ပတ္တိရေးမယ်ဆိုရင်' ဟူသောခေါင်းစဉ်ဖြင့် ထေရုပ္ပတ္တိရေးသားခြင်းဆိုင်ရာ အကြံပေး ဆောင်းပါးတစ်ပုဒ်ကိုပင် ရေးသား၍လမ်းညွှန်ပေးခဲ့ဖူးပါသည်။*[၁]

ဘုန်းတော်ကြီးဦးမာနိတသည်လည်း စာရေးသူ ရေးသားဆဲဖြစ်သော လယ်တီထေရုပ္ပတ္တိ အပေါ်၌ အာရုံထားကြောင့်ကြတော်မူပါသည်။ ထိုစာအုပ်ဖြစ်အောင် လက်စသတ်ရန် အတန်တန် တိုက်တွန်းတော်မူလေ့ရှိသည်။ ထိုစာအုပ်ကိစ္စအသံမကြားဘဲငြိမ်နေ၍ စာရေးသူထံရေးပို့သော စာတစ်စောင်တွင် 'လယ်တီရေးသင့်ပြီ၊ လုပ်ဖြစ်အောင် အချိန်လုပြီးလုပ်ပါ၊ အဲဒါမရေးဖြစ်လျှင် ငါ့ဆီမလာနဲ့တော့' ဟု ထည့်ရေးတော်မူပါသဖြင့် စာရေးသူမှာ ကိုယ့်အပြစ်နှင့်ကိုယ် ဘုန်းတော်ကြီး ထံ တော်တော်နှင့်မသွားဝံ့ဘဲရှိခဲ့ပါသည်။ ဘုန်းတော်ကြီးသည် လယ်တီဆရာတော်ကြီးထေရုပ္ပတ္တိ ဖြစ်မြောက်ရေးအတွက် အလွန်ထက်သန်အားကြီးသောဆန္ဒရှိတော်မူသည့်အားလျော်စွာ လယ်တီ ဆရာတော်အကြောင်းပါသော စာအုပ်စာတမ်း စသည်ရလျှင်၊ လယ်တီဆရာတော်နှင့်စပ်သော သတင်းကြားလျှင် စာရေးသူထံ စာဖြင့်ဖြစ်စေ၊ လူကြုံဖြင့်ဖြစ်စေ အသိပေးအကြောင်းကြားလေ့ ရှိပါသည်။

အမှန်ရေးရလျှင် ဤစာအုပ်အတွက် စာရေးသူအချိန်ဆွဲပြီးရှာဖွေရေးသားနေမှုကို ဒေါ်ဒေါ် ဒေါ်အမာနှင့်ဘုန်းတော်ကြီးဦးမာနိတတို့သည် မည်သို့မျှစိတ်ရှည်ကြလိမ့်မည်မဟုတ်ပေ။ သို့ပေငြား စာရေးသူအပေါ်၌ အလွန်မေတ္တာရှိကြသဖြင့်သာ ဤမျှအလိုလိုက်နေကြခြင်းသာဖြစ်ပေလိမ့်မည်။ တော်ရုံမေတ္တာစေတနာချစ်ခင်မှုဖြင့် ဤမျှမျှော်လင့်ကြလိမ့်မည်မဟုတ်ဟုယူဆမိပါသည်။

ဦးလေးလူထုဦးလှကမူ သူ့စာရေးစားပွဲရှေ့ရှိမှန်ဗီရိုနှစ်လုံးအတွင်းမှ ဟံသာဝတီပုံနှိပ်တိုက်ရိုက် လယ်တီဒီပနီကျမ်းစာအုပ်များကိုညွှန်ပြကာ 'ဒါ လယ်တီဆရာတော်ကြီးရဲ့ ဒီပနီကျမ်းစာတွေ ချည်းပဲကွယ့်၊ ဦးဘခင်ဆီကရတာလေပါ၊ တို့စုထားတာတွေလဲပါတယ်၊ မင်းယူပြီးသုံး၊ ရိုရိုသေသေ ကိုင်' ဟု မိမိအစဉ်ဖတ်ရှုအသုံးပြုနေသော လယ်တီဒီပနီကျမ်းစာအုပ်များကို ကြည့်ရှုခွင့်ပေး ပါသည်။ ဦးလေးက 'လယ်တီဆရာတော်ကြီးကို သိမီလိုက်သူများသည် ယခုအခါ သက်ရွယ် ကြီးရင့်လှပြီဖြစ်၍ ထိုပုဂ္ဂိုလ်များထံ အချိန်ပေးချဉ်းကပ်ပြီးမေးမြန်းထားမှတော်ပေလိမ့်မည်' ဟုပြောပြီး အသားစားရှောင်ကြဉ်ရေးအဖွဲ့ဦးကျော်လှ၊*[၂] နယူးစီဗီလိုင်းရှိ ဝိဖိတာရုံဆရာတော်ကြီး*[၃] ဘီဘီအိုအေ (မိဘမဲ့ကျောင်း) ဘုန်းတော်ကြီးဦးပဝရတို့ထံသွားရောက်မေးမြန်းရန် မိတ်ဆက်

---

*[၁] လူထုဒေါ်အမာ၏ အတ္ထုပ္ပတ္တိရေးမယ်ဆိုရင် (ဆောင်းပါး)။ မန္တလေးမဂ္ဂဇင်း။ ၁၉၉၀-ပြည့်နှစ်၊ ဖေဖော်ဝါရီလ။ (စာမျက်နှာ ၈၀-၈၂)။

*[၂] လယ်တီဆရာတော်ကြီး၏ နိုင်ငံခြားသာသနာပြုအသင်းအတွက် မန္တလေးမြို့၌ အလှူငွေကောက်ခံပေးခဲ့သော ကိုယ်စား လှယ်ကြီးဖြစ်သည်။ လူထုဒေါ်အမာ၏ ရွက်ပုန်းသီးသူတော်စင်ကြီး(ဆောင်းပါး)။ မန္တလေးသူ, မန္တလေးသားများ (စာမျက် နှာ-၁၅၀)တွင်ကြည့်ပါ။

*[၃] လယ်တီဆရာတော်ကြီး စစ်ကိုင်းတောင်ရိုး၊ စိတ္တသုခချောင်နှင့် ဇေတဝန်ချောင်တို့၌ ပရမတ္ထဒီပနီ စာဝါပို့ချတော်မူစဉ်က စာဝါလိုက်ဖူးသောဆရာတော်ကြီးဖြစ်သည်။

စာများစာရေးပေးပါသည်။ မန္တလေးအရှေ့ပြင် မဟာဝိသုဒ္ဓါရုံတိုက်ဟောင်း၌ သီတင်းသုံးနေတော်မူသော ကျေးမြှင်ဆရာတော်ကြီး*၁ ထံတော်သို့လည်းလွှတ်ပါသည်။ ထိုပုဂ္ဂိုလ်များထံမှ မေးမြန်းရာက ပြန်လာလျှင် ဦးလေးက 'ဘယ်လိုမေးခဲ့သလဲ၊ ဘာတွေဖြေလိုက်သလဲ' စသည့် မေးပုံမေးနည်းများကိုစစ်ဆေးကာ ပြုပြင်ပေးပါသည်။ 'နောက်တစ်ခေါက်သွားရင် ကိုယ်မေးမယ့် အချက်အလက်တွေကို စာရွက်ပေါ်မှာ သေသေချာချာ ရေးသွားကွ၊ ဒါမှ အချိန်တိုတိုနဲ့ ထိထိရောက်ရောက် မေးနိုင်မှာ'ဟု ကြိုတင်ပြင်ဆင်ပုံပြင်ဆင်နည်းများကိုလည်း ပြောပြပါသည်။

ရွှေကိုင်းသားဆရာတော် (ဦးသောဘိတ)ကလည်း ရေနံ့ရိုက်လယ်တီဒီပနီဟောင်းများ၊ လယ်တီတရားသတင်းစာ၊ ဓမ္မဒေသနာသတင်းစာ၊ မဟာဗောဓိတရားသတင်းစာ စသည့်သတင်းစာဟောင်းများကိုပေးအပ်ပြီး လယ်တီဆရာတော်ကြီး စစ်ကိုင်းတောင်ရိုး၌ သီတင်းသုံးတော်မူခဲ့ပုံအကြောင်းတို့ကိုမိန့်ကြားပါသည်။ ရတနာပုံဖိုးမှတ်စုဆိုသည့်အတိုင်း မှတ်စုထုတ်ပုံ၊ ထားသိုပုံမှစ၍ စနစ်ကျအောင်သွန်သင်ပြသပေးတော်မူပါသည်။

လူထုအဖွဲ့သားဖြစ်ကြသော စာရေးဆရာမောင်မဲ(ဦးတင်ဟိန်း)၊ စာပြင်အယ်ဒီတာကြီးဓမ္မာစရိယ ဦးစိုးမင်း၊ ကိုသစ်လွင် (လူထု)၊ ကိုသိန်းတန်၊ ကိုရွှေနှင့် ကိုညို(ညီပုလေး)တို့က စာရေးသူကိုကူညီ၍ မေးမြန်းပေးကြ ရှာဖွေပေးကြပါသည်။ ထိုစဉ်က လူထုပန်းချီဆရာကိုပေါ်ဦးသက်၏ 'ဟေ့လူ–ခင်ဗျားစာအုပ်အဖုံးကို စပယ်ရှယ်ရေးပေးမယ်ဗျာ' ဟု လောကွတ်မပါ အရိုးခံအတိုင်းစေတနာအပြည့်နှင့်ပြောချလိုက်ပုံကိုကား ယခုတိုင်မေ့ရက်နိုင်စရာမရှိပါပေ။

စစ်ကိုင်းမြို့ သုဗောဓာရုံတိုက်အရှင်နန္ဒမာလာဘိဝံသက မိတ်ဆက်ပေး၍ လယ်တီဂန္ထဝင်ကျော်များကျမ်းပြု စစ်ကိုင်းတိုင်းသာသနာရေးမှူးလယ်တီဦးလှပိုင်နှင့်သိခွင့်ရခဲ့ပါသည်။ စာရေးသူအဖို့မှာ ဘိုးဘိုးကြီးလယ်တီဦးလှတင်နှင့် ဝေးကွာနေရသည့်အချိန်တို့တွင် လယ်တီဦးလှပိုင်နှင့် တွေ့ကြုံ ဆုံဆည်းလိုက်ရခြင်းမှာ ထူးသောကံဟု ယူဆမိသည်။ လယ်တီဦးလှပိုင်သည် လယ်တီဆရာတော်ဘုရားကြီးအား ကိုယ်တိုင်သိမီလိုက်သူမဟုတ်ငြားလည်း လယ်တီဗဟုသုတန့်စပ်သော ပုဂ္ဂိုလ်တစ်ဦးဖြစ်သဖြင့် စာရေးသူသိလိုသမျှကို စိတ်လက်ရှည်စွာ ရှင်းပြလေ့ရှိသည်။

မန္တလေးမြို့တွင်နေစဉ်အတွင်း စိန်ပန်းရပ်ရှိ အဘယာရာမကျောင်းတိုက်ဆရာတော် အရှင်သီလာနန္ဒာဘိဝံသ (အဂ္ဂမဟာပဏ္ဍိတ၊ D.Litt.)*၂ ထံတော်မှလည်း လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီသဒ္ဒါကျမ်း၊ ယောမင်းကြီး၏သဒ္ဒသင်္ဂဟသဒ္ဒါကျမ်း၊ လယ်တီစာသင်နည်းနှင့် လယ်တီဆရာတော်ကြီး ပဒရူပသိဒ္ဓိချုပ်ပုံအကြောင်းတို့ကို စိတ်လက်ရှည်စွာအချိန်အကုန်ခံ၍ အကြိမ်ကြိမ်ရှင်းလင်းမိန့်ကြားသည်ကို နာယူခွင့်ရခဲ့ပါသည်။ ယောမင်းကြီး၏သဒ္ဒသင်္ဂဟကျမ်းသည် ပေမူဖြင့်သာ ရှိနေ၍ ထိုကျမ်းပေမူကိုကြည့်ရှုခွင့်ပေးပြီး ထိုကျမ်း၏ကျယ်ဝန်းပုံနှင့် ရေးသားစီရင်ထားပုံများကို ရှင်းပြတော်မူပါသည်။

*၁ ကောဒသမ ရွှေကျင်သာသနာပိုင်ဆရာတော်ဘုရားကြီးဖြစ်ပါသည်။

*၂ အမေရိကန်ပြည်ထောင်စု၊ ကယ်လီဖိုးနီးယားပြည်နယ်၊ ဟာ့မွန်းဗေးမြို့ ဓမ္မာနန္ဒဝိဟာရကျောင်းတိုက်ဆရာတော်ကြီး။ မြန်မာနိုင်ငံအပြည်ပြည်ဆိုင်ရာထေရဝါဒဗုဒ္ဓသာသနာပြုတက္ကသိုလ် ပါမောက္ခချုပ်။

စာရေးသူမန္တလေးမြို့မှပြောင်းရွှေ့၍ ရန်ကုန်မြို့တွင်နေထိုင်သောအခါမှာလည်း သာသနာရေး ဦးစီးဌာန စာပြင်မှူးချုပ် ဝဏ္ဏကျော်ထင်ဆရာကြီးဦးမာဃ၊ ဆရာကြီးဦးသော်ဇင်၊ ဆရာကြီး ဦးဆန်းထွန်း၊ ဆရာကြီးဦးထွန်းလှိုင်–စသည့်ပုဂ္ဂိုလ်များထံမှ မှတ်သားဖွယ်ရာများကို စုဆောင်း ခဲ့ရပါသည်။ လယ်တီအနွယ်ဆရာကြီးဒဂုန်ဦးစန်းငွေကိုမူကား ရတနာမွန်မဂ္ဂဇင်း၌ အတူတွဲဖက် လုပ်ကိုင်ခဲ့ရသဖြင့် ဆရာကြီးထံမှလယ်တီဗဟုသုတများစွာ နာယူခဲ့ရပါသည်။

ထို့ပြင် ရန်ကုန်တက္ကသိုလ်၊ တက္ကသိုလ်များဗဟိုစာကြည့်တိုက်မှူးဆရာဦးသော်ကောင်း (D.Litt)ကလည်း လယ်တီဆရာတော်ကြီး ပြန်လွှန်တော်မူသောအချိန် အေဒီ ၁၉၂၃–ခုနှစ်က ထုတ်ဝေခဲ့သော အလွှန်ရှားပါးနေပြီဖြစ်သည့် သတင်းစာ,ဂျာနယ်,စာစောင်များပါ သတင်း ဆောင်းပါး၊ တေးထပ်၊ လေးချိုး၊ လေးဆစ်၊ သံပေါက်ကဗျာ ရသမျှအကုန်စုဆောင်းပြီး မိတ္တူကူးပေးပါသည်။ လယ်တီဒီပနီစာအုပ်မူဟောင်းတို့ကိုလည်း ကြည့်ရှုကူးယူခွင့်ပြုခဲ့ပါသည်။ ဆရာဦးသော်ကောင်း၏ရှာဖွေပေးမှုကြောင့် အေဒီ ၁၉၂၁–ခုနှစ်တွင် ရန်ကုန်တက္ကသိုလ်က ဆရာတော်ကြီးအား ဒီလစ် (D.Litt) ဘွဲ့တံဆိပ်ဆက်ကပ်ပုံအကြောင်းကို ထိုစဉ်ကပုံနှိပ်ထုတ်ဝေ ခဲ့သော တက္ကသိုလ်ဘွဲ့နှင်းသဘင်အစီရင်ခံစာ*၁ နှင့်တကွ ပြည့်ပြည့်စုံစုံသိခွင့်ရခဲ့ပါသည်။

ထို့နောက် လယ်တီဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိရေးသားရန်အချက်အလက်များ ကိုသာ မဲ၍ရှာဖွေနေသောစာရေးသူအား ထေရုပ္ပတ္တိစာသားကိုစတင်ရေးသားရန် ထိထိရောက် ရောက်တိုက်တွန်းသူမှာ ယဉ်ကျေးမှုဝိမာန်ဦးစီးဌာနညွှန်ကြားရေးမှူးချုပ် ဆရာဦးသန်းထွတ် (ဆရာတိုက်စိုး)ဖြစ်ပါသည်။ ဆရာသည် ထေရုပ္ပတ္တိရေးသားမှုဘာသာရပ်၌ စိတ်ဝင်တစားရှိပြီး အစဉ်သုတေသနပြုနေသူဖြစ်ပါသည်။ ကိုယ်တိုင်လည်း ပီမိုးနင်း၊ ဦးဖိုးကျ၊ မော်ဘီဆရာသိန်း၊ မင်းတုန်းမင်း–စသောအတ္ထုပ္ပတ္တိတို့ကို ရေးသားခဲ့သူဖြစ်ပါသည်။ စာရေးသူကို ရန်ကုန်မြို့ ပန်းဆိုးတန်းလမ်း၊ ယဉ်ကျေးမှုဝိမာန်ရှိ သူ့ရုံးခန်းသို့ ညနေတိုင်းလိုလိုခေါ်ယူတွေ့ဆုံပြီး အတ္ထုပ္ပတ္တိ ပညာဘာသာရပ်ကို ပို့ချပေးခဲ့ပါသည်။ အတ္ထုပ္ပတ္တိစာပေရေးပုံအတတ်ပညာတို့ကိုလည်း အလေး အနက်ထားကာ ဆွေးနွေးပြောပြခဲ့ပါသည်။ ကမ္ဘာ့၌ထင်ရှားသော အတ္ထုပ္ပတ္တိစာအုပ်များနှင့် ရေးသားကြပုံအကြောင်းတို့ကို စာအုပ်စာတမ်းများကိုပါပြသပြီးရှင်းပြသည်။ တစ်နှစ်နီးပါး ဆရာ ဦးသန်းထွတ်ထံ၌ နေ့စဉ်လိုလို အတ္ထုပ္ပတ္တိစာပေပညာကိုလေ့လာရခဲ့သည့်အတွက် အတ္ထုပ္ပတ္တိ စာပေတည်းဟူသော တောင်နိုင်ကြီး၏နက်ရှိုင်းကျယ်ဝန်းပုံနှင့်ပုံတို့ကို သိခွင့်ရပါသည်။ ထိုစဉ်က ဆရာတိုက်တွန်းသည့်အတိုင်း ‘ထေရုပ္ပတ္တိစာပေအကြောင်းသိကောင်းစရာအဖြာဖြာ’ စာတမ်းငယ် တစ်စောင်ကို ရေးသားခဲ့ရဖူးပါသည်။*၂ ဆရာဦးသန်းထွတ်က အတ္ထုပ္ပတ္တိဟူသည် တကယ့်ဖြစ်ရပ် မှန်ကို ရေးရသောကြောင့် အပိုအဆာအကွန့်အညွန့်မပါရဆိုသော်လည်း စာဖတ်သူတို့ဖတ်ရှု မွေ့လျော်နိုင်ရန် ရသသဘောကိုလည်း စွက်သင့်ကြောင်း စသည့်ဆွေးနွေးချက်များသည်ကား

---

*၁ Report of The Executive Committee of The Council of The University of Rangoon on the condition of the University and a statement of receipts and expenditure for the period 1st December 1920 to 31 March 1922.

*၂ ‘ထေရုပ္ပတ္တိစာပေအကြောင်း သိကောင်းစရာအဖြာဖြာ’ စာတမ်းကို ဤကျမ်း၏နောက်ဆက်တွဲ(၁)တွင် ဖော်ပြထားပါသည်။

တကယ် လက်တွေ့ရေးချကြည့်သောအခါ၌ ထိုဆွေးနွေးလမ်းညွှန်ချက်တို့သည် များစွာအထောက်အကူပြုကြောင်းတွေ့ရပါသည်။

စာရှုသူများအနေဖြင့် ဤမျှကောင်းမွန်ပြည့်စုံတောင့်တင်းသောပတ်ဝန်းကျင်အခြေအနေကဝိုင်းဝန်းပျိုးထောင်လိုက်သည့်အတွက် စာရေးသူသည် လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ္တိစာအုပ်ကို နတ်ရေကန်ထဲပစ်ချလိုက်သလို ဘွားခနဲရေးသားပေါ်ထွက်လာနိုင်လိမ့်မည်ဟု မှတ်ယူကောင်း မှတ်ယူကြပေလိမ့်မည်။ သို့ပါသော် ထိုသို့သောပတ်ဝန်းကျင်ကောင်းကို ကြုံတွေ့ရလင့်ကစား တကယ်တမ်းချ၍ရေးသားကြည့်သောအခါတွင်ကား ထင်သလောက်မလွယ်ကူပုံ၊ အခက်အခဲများစွာနှင့်တွေ့ကြုံရပုံတို့ကို ဆက်လက်၍တင်ပြလိုပေသည်။

အတ္ထုပ္ပတ္တိစာပေပညာရှင်တို့က ‘အတ္ထုပ္ပတ္တိစာပေဟူသည် လူတစ်ဦးတစ်ယောက်၏ဘဝနှင့်ဆိုင်သော သိဖွယ်မှန်သမျှကို သိနိုင်သမျှသိရအောင် ကြိုးစားပြီး ပြန်လည်ရေးသားတင်ပြထားသောစာပေဖြစ်သည်’*၁ ဟု အဓိပ္ပာယ်ဖွင့်ဆိုထားပါသဖြင့်၊ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်ထေရုပ္ပတ္တိကို ရေးသားပြုစုရာ၌ ဆရာတော်ဘုရားကြီးဘဝဖြစ်တော်စဉ်နှင့်သက်ဆိုင်သည့် အချက်အလက်တို့ကို ပြည့်ပြည့်ဝဝစုံစုံလင်လင်ပြုစုရေးသားရန်ပဓာနထား၍ အောက်ပါအတိုင်း လုပ်ငန်းအဆင့်ဆင့်ကို ကြိုးပမ်းလုပ်ဆောင်ခဲ့ရပါသည်။

ရှေးဦးပထမလုပ်ဆောင်ရသောလုပ်ငန်းမှာ လယ်တီဆရာတော်ဘုရားကြီး သီတင်းသုံးတော်မူရာ မြို့ရွာဌာနများကိုသွားရောက်လေ့လာရခြင်းပင်ဖြစ်သည်။ ဤသို့လေ့လာရာတွင် ဆရာတော်ဘုရားကြီး ဖွားမြင်တော်မူရာ စတင်ပညာဆည်းပူးရာ စိုင်ပြင်ရွာ၊ ရဲထွက်ရွာ၊ မန္တလေးမြို့စသည်၊ ဆရာတော်ဘုရားကြီး ဝါကပ်သီတင်းသုံးတော်မူရာ စိုင်ပြင်ရွာ၊ မုံရွာ၊ မန္တလေး၊ စစ်ကိုင်း၊ ပျဉ်းမနား၊ မြင်းခြံ၊ ဆပုက်ကျေးရွာ၊ လယ်ဇင်ရွာ၊ ဝက်ရဲတော၊ ရွှေတောင်ဦးတောင်၊ လက်ပတောင်းတောင်၊ ပြည်မြို့၊ မင်းလှမြို့၊ စိန်ကန့်လန့်တောရ၊ မော်လမြိုင်မြို့၊ သာပေါင်းမြို့၊ မြင်းခြံမြို့၊ ရန်ကုန်မြို့၊ မြစ်သားမြို့၊ ကတွန်ကျေးရွာ–စသည့်ဌာနများသို့ အကြိမ်ကြိမ်သွားရောက်ရပါသည်။ အထူးသဖြင့် ဆရာတော်ဘုရားကြီး ဝါကပ်ရာဌာနများတွင် မြင်းခြံမြို့၌ ‘ရေကန်ကြီးအနီး’ဟု လမ်းညွှန်ထားရာ မြင်းခြံသို့ အကြိမ်ကြိမ်သွား၍ ထိုနေရာကို ရှာဖွေခဲ့ရပါသည်။ ထို့အတူ သာပေါင်းမြို့၊ ကတွန်ကျေးရွာနှင့် စိန်ကန့်လန့်တောရစသည်တို့မှာလည်း ထိုနည်းအတိုင်းပင် သွားလာရခဲယဉ်းပြီး နေရာအတိအကျရရှိစေရန် များစွာကြိုးပမ်းခဲ့ရပါသည်။ ထို့ပြင် ဆရာတော်ဘုရားကြီးတရားဟောကြွတော်မူ၍ ခေတ္တသီတင်းသုံးရာဌာနအသီးသီးတို့ကိုလည်း တတ်အားသမျှသွားရောက်ကာလေ့လာခဲ့ရပါသည်။

ဤကဲ့သို့ ဆရာတော်ဘုရားကြီး သာသနာပြုတော်မူရာ မြို့ရွာအသီးသီးကို ရောက်ရှိပြီးနောက်၊ ထိုမြို့ရွာအသီးသီးတို့၌ လယ်တီဆရာတော်ကြီးအား သိမီလိုက်သောပုဂ္ဂိုလ်များကို လိုက်လံ

---

*၁ အမေရိကန်ပြည်ထောင်စု၊ အိုဟိုင်ယိုပြည်နယ်တက္ကသိုလ်၊ အင်္ဂလိပ်စာပါမောက္ခ ပေါ မာရေးကင်းဒေါ်၏ အတ္ထုပ္ပတ္တိဆိုင်ရာအတတ်ပညာစာအုပ် (The Art of Biography) တွင်ပါသော (The simulation in words, of a man's life, from all that is known about that man) ဟူသော ဖွင့်ဆိုချက်ဖြစ်ပါသည်။ ဆရာဦးသန်းထွတ်၏ အတ္ထုပ္ပတ္တိအမှားအမှန်။ JBRS, LXI, i & ii. Dec, 1978. (Page-272).

တွေ့ဆုံပြီး မိန့်ဆိုပြောကြားချက်များစွာကို စုဆောင်းရခြင်းမှာ ဒုတိယကိစ္စဖြစ်ပါသည်။ ထိုထို မိန့်ကြားကြသောပုဂ္ဂိုလ်တို့တွင် အချို့ကဆရာတော်ကြီးကို ကိုယ်တိုင်သိမီလိုက်ကြပြီး၊ အချို့ကမူ လယ်တီဆရာတော်ကြီးကို ကိုယ်တွေ့သိမီခြင်းမရှိဘဲ ကြားဖူးသည်ကို ပြန်လည်မိန့်ကြားခြင်း ဖြစ်သည်။ မည်သို့ဆိုစေ စာရေးသူအဖို့မှာ ဆရာတော်ဘုရားကြီးနှင့်စပ်သမျှ, ကြားရသမျှတို့ကို စေ့စုံနိုင်သမျှ စေ့စုံအောင်မေးမြန်းပြီး မှတ်တမ်းတင်ထားခဲ့ပါသည်။

ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၈၅–ခုနှစ် (ခရစ် ၁၉၂၃–ခုနှစ်) ကပင် ဘဝနတ်ထံစံလွန်တော်မူခဲ့ပြီဖြစ်ပြီး ထိုခေတ်ထိုအခါက အသံဖမ်းခြင်းစသော နည်းပညာများလည်း မထွန်းကားသေးသည့်အတွက် ဆရာတော်ကြီးကိုယ်တိုင်ကိုယ်ကျ မိန့်ကြားသည်ကို အသံဖမ်းထားပြီး ပြန်လည်မှတ်သားနာယူရန်ကိစ္စမှာ မည်သည့်နည်းနှင့်မျှ မဖြစ်နိုင်ပေ။*၁ ဆရာတော်ကြီးကိုယ်တော်တိုင် နှုတ်မြွက်မိန့်ကြားခြင်းကို မရနိုင်သောအခါ ထိုသို့နှုတ်မိန့်ခြင်း ထပ်တူတန်ဖိုးရှိသော ဆရာတော်ကြီးကိုယ်တော်တိုင် ရေးသားမှတ်သားထားခဲ့သည့် ကိုယ်ရေးမှတ်တမ်းများ(တစ်နည်း)ကိုယ်ရေးအတ္ထုပ္ပတ္တိ*၂၊ နေ့စဉ်မှတ်တမ်း*၃ တို့ကိုရှာဖွေ ဖတ်ရှုရန်ဖြစ်သည်။ ထိုအချက်နှင့်စပ်လျဉ်း၍လည်း လယ်တီဆရာတော်ကြီးတို့လက်ထက်အခါကို မဆိုထားဘိ၊ ဤနိုင်ငံ၌ လယ်တီဆရာတော်ကြီးတို့ခေတ်ထက်နောက်ပိုင်းကျသောအခါမှာလည်း ကိုယ်ရေးမှတ်တမ်းရေးသောအလေ့နည်းပါးခဲ့သည်။ မြန်မာနိုင်ငံ၌ ကိုယ်ရေးမှတ်တမ်းပေါ်လာခြင်းသည် အနှစ်တစ်ရာပင်မပြည့်သေးကြောင်း အတ္ထုပ္ပတ္တိစာပေဆိုင်ရာစာတမ်းများ၌ ပညာရှင်တို့ရေးသားထားကြသည်။*၄

ကျေးဇူးရှင်လယ်တီဆရာတော်ကြီးကိုယ်တော်တိုင် မိန့်ကြားချက် သို့မဟုတ် ကိုယ်ရေးမှတ်တမ်းတို့ကို မရနိုင်သည့်အခါ ဆရာတော်ကြီးကိုယ်တိုင်ရေးသားခဲ့သောကျမ်းစာများကို အရင်းခံအထောက်အထားအဖြစ် လေ့လာခဲ့ရပါသည်။ ဆရာတော်ကြီးသည် မိမိပြုစုခဲ့သောကျမ်းစာများ၏ နိဒါန်းတွင်ဖြစ်စေ၊ နိဂုံးတွင်ဖြစ်စေ၊ စာကိုယ်တွင်ဖြစ်စေ မိမိ၏ဘဝနှင့်သက်ဆိုင်သောအကြောင်းအရာ တစ်စိတ်တစ်ဒေသကို အလျဉ်းသင့်သလိုထည့်သွင်းရေးသားတော်မူနိုင်သည်ဖြစ်ပါ၍ ထိုရေးသားထားချက်အထောက်အထားများကိုပင် အရင်းခံအထောက်အထားအဖြစ် အသုံးပြုရန်အတွက် စုဆောင်းရှာဖွေရပါသည်။*၅ လယ်တီဆရာတော်ကြီးရေးသားပြုစုတော်မူခဲ့သော ကျမ်းစာ

---

*၁ ၁၉၄၀–ပြည့်နှစ်၊ ဇွန်လထုတ် ဒဂုန်မဂ္ဂဇင်း (စာမျက်နှာ–၅၃) ပါ သိပ္ပံမောင်ဝ၏ အသံလွှင့်စက် (ဆောင်းပါး) တွင် ထို ၁၉၄၀–ပြည့်နှစ်ကာလသို့ရောက်မှ အသံဖမ်းစက်,လွှင့်စက်များ မြန်မာနိုင်ငံ၌ခေတ်ထနေပုံကို ရေးထား၏။

*၂ Autobiography, Memoir.

*၃ Diary။ ဤအစုတွင် ပေးစာ (Letters) များလည်းပါသည်။

*၄ ပါရဂူ၏ မြန်မာအတ္ထုပ္ပတ္တိသမိုင်းအကျဉ်း(စာတမ်း)။ အတ္ထုပ္ပတ္တိစာပေ။ ၁၉၇၁–ခုနှစ်။ (စာမျက်နှာ–၁၉)။ မောင်ထင်၏ အတ္ထုပ္ပတ္တိပြုစုခြင်းဆိုင်ရာအတွေ့အကြုံများ(စာတမ်း)။ အတ္ထုပ္ပတ္တိစာပေ။ ၁၉၇၁–ခုနှစ်။ (စာမျက်နှာ–၆၅)။လူထုဒေါ်အမာ၏ အတ္ထုပ္ပတ္တိစာပေ(စာတမ်း)။ စနေစာပေပိုင်း။ (စာမျက်နှာ–၅၈)။ ထိုစာတမ်းတို့တွင် '၁၉၂၇–ခုနှစ်ရေး အရှင်အာဒိစ္စဝံသ၏ ကိုယ်ရေးအတ္ထုပ္ပတ္တိဖြစ်သည့် အာဒိစ္စဝံသထေရာပဒါန်ကို အစောဆုံးပေါ်သောကိုယ်ရေးအတ္ထုပ္ပတ္တိ' ဟုဖော်ပြထားကြပါသည်။

*၅ ဆရာပါရဂူ၏ မြန်မာနိုင်ငံအတ္ထုပ္ပတ္တိစာပေသမိုင်းအကျဉ်း (စာတမ်း)။ (စာမျက်နှာ–၁၉)၌ 'ကိုယ်ရေးမှတ်တမ်း မပေါ်ပေါက်သေးသော ရှေးခေတ်အခါက ပျို့ကဗျာနိဂုံးတို့တွင်တွေ့ရသော စာဆိုပုဂ္ဂိုလ်တို့၏ အကြောင်းအရာများသည်ပင် ကိုယ်ရေးအတ္ထုပ္ပတ္တိ၏ သန္ဓေဖြစ်ကြောင်း'–ဖော်ပြထားပါသည်။

များကို လေ့လာနိုင်ရန်အတွက် ဆရာတော်ကြီးပြုစုခဲ့သော ကျမ်းစာစုစာရင်းကိုလည်း အတိအကျ ရရှိနိုင်ရန် ရှေးဦးပြုစုရပါသည်။ ဤတွင် လယ်တီဆရာတော်ကြီးပြုစုခဲ့သော ကျမ်းစာအရေ အတွက်မှာ အမျိုးမျိုးဖြစ်နေကြောင်း တွေ့ရသည်။

လယ်တီဆရာတော်ကြီးပြုစုတော်မူခဲ့သော ကျမ်းစာအရေအတွက်ကိုလေ့လာသောအခါ မဟာလယ်တီတိုက်ကြီးအကြောင်းသိဖွယ်ရာအကျဉ်းချုပ်[*၁]တွင် ကျမ်းပေါင်း(၁၀၈)ကျမ်း၊ အောင်သိဒ္ဓိ ရွှေကြီး၏ ဝါတော်စဉ်ထေရုပ္ပတ္တိအကျဉ်းချုပ်တွင်[*၂] နှင့် ဗုဒ္ဓသာသနာအဖွဲ့ (ယခု သာသနာရေးဦးစီးဌာန)ကထုတ်ဝေသော လယ်တီဒီပနီပေါင်းချုပ်(ပထမတွဲ) နိဒါန်း[*၃] တို့တွင် ကျမ်းပေါင်း (၁၀၅) ကျမ်း၊ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ[*၄] နှင့် လှသမိန်၏ ဂန္ထဝင်ပုဂ္ဂိုလ်ကျော်များ အတ္ထုပ္ပတ္တိပေါင်းချုပ်[*၅]တွင် ကျမ်းပေါင်း (၁၀၂)ကျမ်း၊ မောင်သုတ၏ စာဆိုတော်များအတ္ထုပ္ပတ္တိ[*၆] တွင် ကျမ်းပေါင်း(၁၀၀)ကျော်၊ ပခုက္ကူအရှင်ကေလာသ၏ မန္တလေး သာသနာဝင် (အတွဲ-၂၁)[*၇] တွင် ကျမ်းပေါင်း(၈၈)ကျမ်း၊ လယ်တီဦးဝဏ္ဏိတ၏ လယ်တီ မဟာထေရုပ္ပတ္တိကထာ[*၈] တွင် ကျမ်းပေါင်း(၇၀)စသည်ဖော်ပြထားကြသဖြင့် ကျမ်းစာအရေ အတွက်ကွဲပြားနေကြောင်းတွေ့ရှိပါသည်၊ ထို့ပြင် မုံရွာမြို့ မဟာလယ်တီတိုက်အတွင်းရှိ ကျောက်စာ ရုံတော်ကြီး၌ ကျောက်ထက်အက္ခရာတင်ထားသော ကျမ်းစာပေါင်းမှာလည်း (၉၁)ကျမ်း ဖြစ်ကြောင်းသိရပါသည်။[*၉]

---

*၁ မဟာလယ်တီတိုက်ကြီးအကြောင်းသိဖွယ်ရာအကျဉ်းချုပ်။ ၁၉၈၆-ခုနှစ်။ (လက်နှိပ်စက်မူ)။

*၂ အောင်သိဒ္ဓိရွှေကြီး၏ ဝါတော်စဉ်ထေရုပ္ပတ္တိအကျဉ်းချုပ်။ ထိုစာအုပ်၌ 'လယ်တီဆရာတော်ကြီးပြုစုခဲ့သောကျမ်းပေါင်း မှာ (၁၂၈)ကျမ်းရှိခဲ့သော်လည်း (၁၀၅)ကျမ်းကိုသာထုတ်ဖော်ပြနိုင်သည်' ဟူ၍ ရေးသားထားသည်။

*၃ လယ်တီဒီပနီပေါင်းချုပ်၊ ပထမတွဲ၊ ဗုဒ္ဓသာသနာမူ။ (စာမျက်နှာ-ဌ)။

*၄ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ-၂၅၇)။

*၅ လှသမိန်၏ ဂန္ထဝင်ပုဂ္ဂိုလ်ကျော်များအတ္ထုပ္ပတ္တိပေါင်းချုပ်။ ၁၉၆၁-ခုနှစ်။ (စာမျက်နှာ-၁၂၄)။

*၆ မောင်သုတ၏ စာဆိုတော်များအတ္ထုပ္ပတ္တိ။ ၂၀၀၂-ခုနှစ်။ (စာမျက်နှာ-၂၈၆)။

*၇ ပခုက္ကူအရှင်ကေလာသ၏ မန္တလေးသာသနာဝင်ကျမ်း၊ (အတွဲ-၂၁)။ (လက်နှိပ်စက်မူ)။

*၈ လယ်တီဦးဝဏ္ဏိတ၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၂၀၀)။

*၉ မောင်လှမြတ်(မုံရွာ)၏ လယ်တီဆရာတော်နှင့် မဟာလယ်တီကျောက်စာ။ (လက်နှိပ်စက်မူ)။ (စာမျက်နှာ-၁၂၆)။ မုံရွာမြို့ လယ်တီကျောက်စာတိုက်အတွင်း၌ လယ်တီဆရာတော်ကြီးပြုစုသော ကျမ်းစာစာရင်းကိုဖော်ပြရာ၌ မူအမျိုးမျိုး ဖြစ်နေကြောင်းတွေ့ရသည်။ ၁၉၂၅-ခု၊ ဧပြီလထုတ်၊ သူရိယမဂ္ဂဇင်း (စာမျက်နှာ-၂၃)တွင် 'ဆရာတော်ကြီးပြုစုခဲ့သော ကျမ်းပေါင်း တစ်ရာကျော်ရှိရာတွင် (၃၆)ကျမ်းကိုလက်ဦးထား၍ ကျောက်ထက်အက္ခရာတင်မည်' ဟု ဖော်ပြထားပါသည်။ ၁၃၁၆-ခု၊ ပြာသိုလဆန်း ၈-ရက် (၁-၁-၅၅)နေ့ထုတ် သံဂါယနာစာစောင်၊ (စာမျက်နှာ-၁၇)တွင် '၁၂၈၉-ခုနှစ် ကျောက်ထက်အက္ခရာတင်ထားသော ကျမ်းပေါင်းမှာ (၈၁)ကျမ်းဖြစ်သည်' ဟုဖော်ပြထားသည်။ ၁၉၅၅-ခု၊ ဩဂုတ်လထုတ် ယဉ်ကျေးမှုစာစောင်ပါ လှသမိန်၏ လယ်တီကျောက်စာများ(ဆောင်းပါး)။ (စာမျက်နှာ-၁၀)တွင် 'ကျောက်ထက် အက္ခရာတင် ကျမ်းပေါင်း(၈၂) ကျမ်း' ဟုဖော်ပြထားသည်။ K.M. Thein 'The Ledi Inscriptions Repository (လက်ကမ်းစာစောင်)၌ 'ကျမ်းပေါင်း(၉၂)ကျမ်း' ဟုဖော်ပြထားသည်။ ၁၉၉၁-ခုနှစ်။ ဩဂုတ်လထုတ် မြတ်ပန်းရဂုံစာစောင်ပါ မောင်ဝင်းငြိမ်း(စစ်ကိုင်း)၏ လယ်တီကုသိုလ်တော်စာအုပ်ကြီး(ဆောင်းပါး)၊ (စာမျက်နှာ-၁၃) ၌ 'ကျောက်ထက် အက္ခရာတင်ကျမ်း(၁၀၅)ကျမ်း' ဟုဖော်ပြထား၏။

ဤသို့လျှင် အရေအတွက်အားဖြင့်ကွဲပြားနေသောလယ်တီကျမ်းစာများကို စုံစုံညီညီရရှိရန် ရှာဖွေရပါသည်။ လယ်တီဆရာတော်ကြီးပြုစုတော်မူခဲ့သောကျမ်းစာများကို အမြို့မြို့အနယ်နယ်ရှိ ပုံနှိပ်တိုက်အသီးသီးတို့က ခေတ်ကာလအဆက်ဆက် အကြိမ်ကြိမ်ရိုက်နှိပ်ခဲ့ကြသောကြောင့် ထိုကျမ်းအများစုအစုံအညီရရှိဖို့အရေးမှာ စင်စစ်ခဲယဉ်းလှပေသည်။ ပမာအားဖြင့် နိရုတ္တိဒီပနီနံကျဉ်းနိဿယ[*၁]၊ သဒ္ဒသံခိပ်လက်စွဲ[*၂]၊ မဟာစတ္တာရီသကသုတ်ပါဠ် နိဿယ[*၃]–စသောကျမ်းတို့မှာ အလွန်ရှားပါးနေပြီဖြစ်သည်။ ထို့ပြင် ဒဋ္ဌီကမ္မပါဌ်၊ သာသနဒါယဇ္ဇဒီပနီပါဌ်၊ သာသနာသမ္ပတ္တိဒီပနီပါဌ်၊ ပဋ္ဌာန်ဒီပနီပါဌ်၊ နိယာမဒီပနီပါဌ်၊ ဝိပဿနာဒီပနီပါဌ်–စသောကျမ်းတို့သည်လည်း ကျော်စာမူအဖြစ်၌သာရှိနေပြီး ပုံနှိပ်မူအဖြစ်သို့ မရောက်ရှိကြသေး။ လယ်တီဆရာတော်ကြီး၏ ကျမ်းစာများကို အစုံအလင်ရရှိရန်အတွက် စာရေးသူအဖို့ အနည်းဆုံး(၁၅)နှစ်မကအချိန်ပေး၍ ရှာဖွေခဲ့ရပါသည်။ ထိုသို့ရှာဖွေရာတွင်လည်း 'စုံလင်ပြီလား' ဟုမေးပါက အချို့သောကျမ်းတို့ကို လယ်တီဆရာတော်ကြီးသည် ဒေသစာကြွချီရာ မြို့ရွာတို့၌ရေးသားတော်မူပြီးလျှင် ထိုမြို့ရွာရှိ ပုံနှိပ်တိုက်တို့မှာပင် ပုံနှိပ်ထုတ်ဝေရန် စွန့်တော်မူသောအလေ့ရှိတော်မူပါသဖြင့် ထိုကျမ်းစာတို့ရရန် ခဲယဉ်းလှရကား 'စုံလင်ပြီ' ဟူ၍ကား ဝန်မခံနိုင်ပေ။[*၄]

လယ်တီဒီပနီကျမ်းစာများကိုစုဆောင်းရာတွင်လည်း ပထမအကြိမ်ရိုက်မူဟောင်းတို့ကို အထူးအလေးထား၍စုဆောင်းခဲ့ပါသည်။ အချို့သောဒီပနီကျမ်းမှာ ပထမအကြိမ်ရိုက်ဟု ကမ္ပည်းထိုးထားသော်လည်း ထိုနှစ်ထက်စော၍ရိုက်ထားခြင်းမျိုးကိုလည်းတွေ့ရ၏။ ဥပမာ–ဥတ္တမပုရိသဒီပနီ[*၅] ကျမ်းဖြစ်သည်။ ထိုပထမအကြိမ်ရိုက်ကျမ်းစာအများစုသည် လယ်တီဆရာတော်သက်တော်ထင်ရှားရှိစဉ်အခါက ပုံနှိပ်ခဲ့သောကျမ်းများဖြစ်သည်။ သို့ဖြစ်၍ လယ်တီဆရာတော်ကြီး၏ လက်ရေးမူလောက်နီးနီး အားကိုးရပါလိမ့်မည်ဟုမျှော်လင့်ထားပါသည်။ နောက်ထပ်အကြိမ်ကြိမ်ရိုက်သော လယ်တီဒီပနီကျမ်းကိုစစ်ဆေးကြည့်သောအခါ (က) မူလ ရိုက်စဉ်က ပါခဲ့သောနိဒါန်းကို နောက်အကြိမ်ရိုက်တွင် မထည့်သွင်းဘဲချန်ခဲ့ခြင်း[*၆]၊ (ခ) မူလရိုက်စဉ်က

---

[*၁] ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၂၆၇–ခုနှစ်။

[*၂] ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၂၆၉–ခုနှစ်။ ၂၀၀၂–ခုနှစ်တွင် လယ်တီဒီပနီထွန်းကားပြန့်ပွားရေးအဖွဲ့က လယ်တီပဏ္ဍိတ၏ ဓာတုမဉ္ဇရီနှင့်တွဲ၍ သဒ္ဒသံခိပ်ကျမ်းကို ပုံနှိပ်ခဲ့ပါသည်။

[*၃] ၁၂၈၃–ခုနှစ်၊ ဇမ္ဗူ့မင်္ဂလာသတင်းစာစက်ပုံနှိပ်တိုက်၊ ပုသိမ်မြို့ရိုက်နှိပ်သောမူဖြစ်သည်။

[*၄] ဤစာအုပ်ပုံနှိပ်ရန်ပြင်ဆင်နေဆဲကာလ (၂၀၀၇–ခုနှစ်၊ အောက်တိုဘာလ) မှာပင် လယ်တီဆရာတော်ဘုရားကြီး၏ ဝိနယသံခိပ်လက်စွဲ၊ နွားမေတ္တာစာ ဂေါဏသူရာမှတ်ချက်–စသော စာအုပ်ငယ်များကို ရရှိပါသည်။

[*၅] ဥတ္တမပုရိသဒီပနီကျမ်းကို ရန်ကုန်မြို့၊ ဟံသာဝတီပုံနှိပ်တိုက်က ၁၉၀၆–ခုနှစ်တွင်တစ်ကြိမ်ရိုက်နှိပ်ခဲ့ပြီး၊ ၁၉၀၇–ခုနှစ်တွင် ရန်ကုန်မြို့၊ ဟံသာဝတီသတင်းစာတိုက်ကရိုက်နှိပ်ရာ 'ပထမနှိပ်ခြင်း၊ စာအုပ်ရေ–၂၀၀၀' ဟု ဖော်ပြ ရိုက်နှိပ်ထားသောကြောင့် ဥတ္တမပုရိသဒီပနီကျမ်း၏ 'ပထမအကြိမ်ရိုက်သောခုနှစ်' သည် ၁၉၀၆–လော?၊ ၁၉၀၇–လော? ဆိုသည်ကို ဝေဖန်စိစစ်ရန်ဖြစ်လေသည်။

[*၆] ၁၂၆၇–ခုနှစ်တွင် ကဝိမျက်မှန်ပုံနှိပ်တိုက်က ပထမအကြိမ်ရိုက်နှိပ်သော နိရုတ္တိဒီပနီပါဠ်ကျမ်းတွင် လယ်တီဆရာတော်ကြီးကိုယ်တော်တိုင်ရေးသော ပါဠိဘာသာနိဒါန်းနှင့် လယ်တီပဏ္ဍိတဦးမောင်ကြီးမြန်မာပြန်တို့ပါရှိပြီး၊ ၁၃၃၁–ခုနှစ် ဗုဒ္ဓသာသနာ့အဖွဲ့က ဒုတိယအကြိမ်ရိုက်နှိပ်သောအခါ ထိုမူလပါဠိနိဒါန်းနှင့် ဘာသာပြန်တို့ကို ဖြုတ်ထားခဲ့ခြင်းမျိုးကို ဆိုလိုသည်။

ဖော်ပြခဲ့သော လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ္တိအကျဉ်းကို နောက်တစ်ကြိမ်ရိုက်သောအခါ ဖြုတ်ခဲ့ခြင်း၊ (ဂ) ယိုဖြုတ်ထားသောနေရာတွင် အခြားပုဂ္ဂိုလ်ရေးသော လယ်တီထေရုပ္ပတ္တိ တစ်မျိုးကိုအစားထိုးထားခြင်းကြောင့် မူလလက်ရာဆုံးရှုံးသွားခြင်း*[၁] တို့ကိုလည်းတွေ့ရပါသည်။ အချို့သောဒီပနီကျမ်းတို့တွင် ရှေ့စာမျက်နှာ (Title Page) နှင့် မျက်နှာဖုံး (Cover) စသည်တို့၌ ရိုက်နှိပ်ထားသော ခုနှစ်အချက်အလက်တို့မှာ လွဲမှားနေတတ်ကြောင်းသတိပြုမိခဲ့ပါသည်။ ပမာ အားဖြင့် ၁၂၈၇–ခုနှစ်၊ ပုသိမ်မြို့ ဇမ္ဗူမင်္ဂလာသတင်းစာ ဓာတ်စက်ပုံနှိပ်တိုက်ကရိုက်နှိပ်သော ပဋိစ္စသမုပ္ပါဒ်ဒီပနီကျမ်း၏ မျက်နှာဖုံးတွင် '၁၂၆၅–ခုနှစ် မဇ္ဈိမဒေသမဟာဗောဓိသို့ကြွသည်' ဟု ဖော်ပြထားသော်လည်း မဇ္ဈိမဒေသသို့ လယ်တီဆရာတော်ကြီးကြွတော်မူသောနှစ်မှာ ၁၂၅၇– ခုနှစ်တွင်ဖြစ်သည်။

လယ်တီဒီပနီကျမ်းစာတို့တွင် အချို့သောကျမ်းသည် တစ်ကျမ်းတည်းလော၊ နှစ်ကျမ်း ရှိခဲ့သလောဆိုသည်ကို ဝေခွဲရသည့်အဖြစ်မျိုးကိုလည်း ကြုံရသည်။ ကြုံရပုံမှာ– 'အနတ္တဒီပနီ' ကျမ်းနှင့်စပ်လျဉ်း၍ 'ကျမ်းဟောင်း ကျမ်းသစ်' ဟုပြဆိုထားသည့်အတွက် အနတ္တဒီပနီကျမ်း နှစ်မျိုးကိုရှာဖွေရပါသည်။ သက္ကရာဇ်၁၂၆၃–ခုနှစ် အလုံမြို့တစ်ဖက်ကမ်း ရွှေတောင်ဦးတောင်ထိပ်၌ လယ်တီဆရာတော်ကြီးသည် သီတင်းသုံးနေစဉ် အလုံမြို့၊ ရွှေတောင်ဘုန်းကြီး ရှင်ဉာဏဝံသ တောင်းပန်၍ရေးသည့် အနတ္တဒီပနီကျမ်းမှာ မူလအနတ္တဒီပနီကျမ်း(တ်နည်း)ကျမ်းဟောင်းဖြစ်ပြီး၊ သက္ကရာဇ်၁၂၈၀–ပြည့်နှစ် ရွှေမြို့၊ ရွှေဥဒေါင်းတောရဘုန်းကြီး ဦးကုသလတောင်းပန်၍ရေးသည့် အနတ္တဒီပနီကျမ်းမှာ အနတ္တဒီပနီကျမ်းသစ်*[၂] ဖြစ်လေသည်။

ဂမ္ဘီရကဗျာကျမ်းတွင်လည်း ရှေးရိုက်များမှာ 'ပထမတွဲ' ဟုဖော်ပြခဲ့ဖူးသောကြောင့် ဒုတိယတွဲ စသည်ရှိလေဦးမည်လားဟု ရှာဖွေခဲ့ပါသည်။ ဒုတိယတွဲဟု ရှိပုံမရပါ။ ထို့ပြင် ရန်ကုန်မြို့၊ အမှတ်–၁၂၊ နှင်းပန်းလမ်းရှိ ရွှေပြည်တန်ပုံနှိပ်တိုက်ကရိုက်သော လယ်တီဆရာတော်ကြီး၏ ဂမ္ဘီရကဗျာကျမ်း (စာမျက်နှာ–၂၃၅)တွင် 'ဤဂမ္ဘီရကဗျာကျမ်း၌မပါသေးသော လယ်တီဆရာတော် များ၏ကဗျာလင်္ကာတို့ကိုရှာဖွေစုဆောင်းပြီး လယ်တီကဗျာပဒေသာကျမ်းကြီးအမည်ဖြင့် ဆက်လက် ပုံနှိပ်ထုတ်ဝေသွားမည်ဖြစ်ကြောင်း' ရေးထားသော်လည်း ထို 'လယ်တီကဗျာပဒေသာကျမ်းကြီး' ပုံနှိပ်ထုတ်ဝေသည်ကိုကား ယခုတိုင်မတွေ့ရပေ။

---

*[၁] ၁၂၉၂–ခုနှစ်၊ ကဝိမျက်မှန်ပုံနှိပ်တိုက်ကရိုက်နှိပ်ခဲ့သော ပရမတ္ထဒီပနီပါဠိ(လန်ဒန်မူ)တွင်ပါရှိသော စတုတ္ထမြစ်ကွေ့ ဆရာတော် ဦးပညာဝံသ၏ လယ်တီမဟာထေရ်သံခေပဥပ္ပတ္တိမဥ္စရီကို နောက်ရိုက် ပရမတ္ထဒီပနီကျမ်းများ၌ ဖြုတ်ခဲ့ခြင်းမျိုးဖြစ်သည်။ ၁၃၂၇–ခုနှစ် ဗုဒ္ဓသာသနာ့အဖွဲ့ကရိုက်နှိပ်သော လယ်တီဒီပနီပေါင်းချုပ်၊ ပထမတွဲ၌ပါရှိသော စာပြင်မှူးချုပ်ဝဏ္ဏကျော်ထင် ဆရာကြီးဦးသာတင်(ဆရာမာဃ)၏ လယ်တီဆရာတော်ကြီးအဌုပ္ပတ္တိအကျဉ်းကို နောက်ရိုက် လယ်တီဒီပနီပေါင်းချုပ်၊ ပထမတွဲတွင်ဖော်ပြမထားဘဲ၊ မြန်မာပြည်စာအုပ်တိုက်ကစီစဉ်သော လယ်တီထေရုပ္ပတ္တိအကျဉ်းကိုသာ ပြောင်းလဲထည့်သွင်း ထားခြင်းမျိုးကို ဆိုလိုသည်။

*[၂] အနတ္တဒီပနီကျမ်းသစ်။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ စတုတ္ထအကြိမ်ရိုက်၊ ၁၂၈၁–ခုနှစ်။

အချို့သောလယ်တီဒီပနီကျမ်းတို့တွင် မူလစာကိုယ်၌ဖော်ပြထားသောကျမ်းအမည်နှင့် နောင်ပုံနှိပ်သောအခါမှဖော်ပြထားသည့်ကျမ်းအမည်တို့သည် တစ်မျိုးစီဖြစ်နေပုံကိုလည်းတွေ့ရပါသည်။ တွေ့ရပုံမှာ– 'ရောဂန္တရဒီပနီကျမ်း' ကို ရှေးမူများတွင် 'အန္တရာယ်ကင်းပေါင်းချုပ်' ဟု ဖော်ပြထားသည်။*[၁] 'မောင်ချစ်ဘေ၏ အသားစားပုစ္ဆာ အဖြေ'*[၂] ကို ရှေးမူတွင် 'ကာလကတ္တား အသားစားမှုပုစ္ဆာ' ဟုတွေ့ရခြင်းမျိုးဖြစ်၏။*[၃] ပါရမီဒီပနီကျမ်းကိုလည်း မူရင်းကျမ်းစာကိုယ်နှင့် ကျမ်းနိဂုံးစသည်တို့၌ 'ဝိသတိပုစ္ဆာဝိဿဇ္ဇနာ' ဟု တွေ့ရှိရပြီးလျှင် ထိုကျမ်းကိုစီစဉ်ပုံနှိပ်သူ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးက ဤကျမ်းစာကို ပါရမီဒီပနီဟု အမည်ပေးခဲ့ကြောင်းမိတ်ဆက် အမှာစာတွင်ရေးသားထားသည်။*[၄] ထိုနည်းတူပင် 'ဣဏပရိဘောဂ ဝိနိစ္ဆယ'*[၅] ကို နိုင်ငံတွင်း ပုစ္ဆာပေါင်းချုပ်၊ ဒုတိယတွဲ*[၆] တွင် 'ဖေယျာပူရဇာမရီရှင်စန္ဒာဝရ ပုစ္ဆာအဖြေ' ဟုဖော်ပြထားလေသည်။ 'ဒါနာဒိဒီပနီ'*[၇] နှင့် 'ဆပဂံရွာမောင်စံဦး၏ပုစ္ဆာအဖြေ'*[၈] တို့မှာလည်း အတူတူပင်ဖြစ်သည်။ မဟာသရဏဂုံတော်ကြီးကို ပျော်ဘွယ်မြို့ သိမ်ကျောင်းတိုက် ဦးသူရိယ တောင်းပန်၍ ရေးပေးတော်မူသော မဟာသရဏဂုံကြီး၊*[၉] လယ်တီဦးဝဏ္ဏိတတောင်းပန်၍ ရေးပေးတော်မူသော ကျေးဇူးဆပ်နည်းနိသျည်း*[၁၀] နှင့် လယ်တီပုစ္ဆာပေါင်းချုပ်၊ ဒုတိယတွဲ*[၁၁]၊ ရောဂန္တရဒီပနီ*[၁၂]၊ ဝိရတိသီလဝိနိစ္ဆယ*[၁၃] စသည်၌ပါသော 'မဟာသရဏဂုံကြီး' ဟူ၍ အမည်အမျိုးမျိုးဖြင့် တွေ့ရသည်။ တစ်မူနှင့်တစ်မူမှာလည်း အနည်းငယ်ကွဲပြားမှုရှိလေသည်။

သက္ကရာဇ် ၁၂၆၁–ခုနှစ်၊ လယ်ဖင်ရွာ၌ လယ်တီဆရာတော်ကြီးဝါကပ်တော်မူစဉ်က ရေးသားခဲ့သော နိဗ္ဗာနဒီပနီကျမ်း*[၁၄] နှင့် မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ ဆိဒ္ဓပိဓာနနီကျမ်း*[၁၅] တွင်

---

*၁ ၁၂၇၂–ခုနှစ်။ မဟိန္ဒပုံနှိပ်တိုက်၊ ရန်ကုန်မြို့ရိုက်မူတွင်ဖြစ်သည်။

*၂ ဘာသာရေးပုစ္ဆာပေါင်းချုပ်၊ ရန်ကုန်မြို့။ (စာမျက်နှာ–၁၈၉)။

*၃ ၁၂၈၁–ခုနှစ်၊ ဂုဏဝတီစာပုံနှိပ်တိုက်၊ မန္တလေးမြို့ရိုက်မူတွင်ဖြစ်သည်။

*၄ ပါရမီဒီပနီ။ ၁၂၇၀–ပြည့်နှစ်။ (စာ–၂)။

*၅ ၁၂၈၃–ခု၊ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့ရိုက်မူတွင်ဖြစ်သည်။

*၆ နိုင်ငံတွင်းပုစ္ဆာအဖြေပေါင်းချုပ်၊ ဒုတိယတွဲ။ ၂၀၀၄–ခုနှစ်။ (စာမျက်နှာ–၁၂၃)။

*၇ ၁၂၈၈–ခုနှစ်။ ဂုဏဝတီစာပုံနှိပ်တိုက်၊ မန္တလေးမြို့ရိုက်မူတွင်ဖြစ်သည်။

*၈ နိုင်ငံတွင်းပုစ္ဆာအဖြေပေါင်းချုပ်၊ ပထမတွဲ။ ၂၀၀၄–ခုနှစ်။ (စာမျက်နှာ–၅၂)။

*၉ ၁၂၉၅–ခုနှစ်၊ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့ရိုက်မူတွင်ဖြစ်သည်။

*၁၀ ၁၃၁၇–ခုနှစ်၊ ဇမ္ဗူမိတ်ဆွေပုံနှိပ်တိုက်၊ ရန်ကုန်မြို့ရိုက်မူတွင်ဖြစ်သည်။

*၁၁ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်၊ ဒုတိယတွဲ။ မဟိန္ဒပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ–၂၁၃)။

*၁၂ ရောဂန္တရဒီပနီကျမ်း၊ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။

*၁၃ ဝိရတိသီလဝိနိစ္ဆယကျမ်း၊ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ–၇၇)။

*၁၄ ၁၂၆၂–ခုနှစ်။ ဟံသာဝတီသတင်းစာတိုက်၊ ရန်ကုန်မြို့ရိုက်မူဖြစ်သည်။

*၁၅ ဆိဒ္ဓပိဓာနနီကျမ်း။ ပြည်ကြီးမဏ္ဍိုင်ပုံနှိပ်တိုက်၊ ၁၉၆၂–ခုနှစ်။ ရန်ကုန်မြို့။ (စာမျက်နှာ–၈၆ မှ ၁၀၈ အထိ)။

ဖော်ပြထားသော လယ်တီနိဗ္ဗာနဒီပနီစာသားတို့ တူညီမှု ရှိ, မရှိ တိုက်ဆိုင်ကြည့်ရာတွင် တူညီမှု မရှိကြောင်းတွေ့ရသည်။ ထို့ပြင် ဦးရွှေဇံအောင် မေးလျှောက်၍ဖြေသော နိဗ္ဗာနဝိသဇ္ဇနာ*၁ နှင့် လယ်တီပုစ္ဆာအဖြေပေါင်းချုပ်ကျမ်းကြီး ပထမတွဲရှိ ကျွန်းကုန်းကြီးပုစ္ဆာခေါ် ဉာဏ်အသင်း, မာရ်အသင်း, ခန္ဓာအသင်း ရှင်းလင်းချက်ပါ နိဗ္ဗာန်သုံးမျိုး*၂၊ လယ်တီဦးဝဏ္ဏိတ တောင်းပန်၍ ရေးသော လယ်တီနိဗ္ဗာန်ဟူ၍-လယ်တီဆရာတော်ကြီး၏ နိဗ္ဗာန်တရားတော် (တစ်နည်း) လယ်တီ နိဗ္ဗာန်မှုအစောင်စောင်ရှိခဲ့ကြောင်းတွေ့ရသည်။

လယ်တီဆရာတော်ကြီးရေးသားတော်မူခြင်းမဟုတ်ကြောင်းထင်ရှားပါလျက် လယ်တီ ဆရာတော်ကြီးရေးသားတော်မူသည်ဟု ဖော်ပြပုံနှိပ်ထားသောစာအုပ်မျိုးကိုလည်း တွေ့ရ၏။ ဟံသာဝတီတိုက်မှပုံနှိပ်သော သင်္ခါရဘာဇနီကျမ်း*၃ နှင့် ရန်ကုန်မြို့ ကျုံးကြီးလမ်းရှိ မြန်မာပြည် စာပုံနှိပ်လုပ်သားများအသင်း ပုံနှိပ်တိုက်ရိုက်သော သံသရာလွတ်ပုံအမေးအဖြေကျမ်းကို လယ်တီ ဆရာတော်ကြီးပြုစုထားကြောင်း ဖော်ပြထားခြင်းမျိုးဖြစ်သည်။

အချို့စာတို့မှာမူ လယ်တီဆရာတော်ကြီးရေးသည်ဟုဖော်ပြထားလင့်ကစား ဟုတ်, မဟုတ်ကို မဝေခွဲနိုင်သောစာမူများလည်းရှိပါသေးသည်။ ရေလဲဦးပဏ္ဍိစ္စ၏ 'လက်တွေ့ကျင့်စဉ်လမ်းညွှန် သခေ်ပတံခွန်*၄ တွင်ပါရှိသော လူထွက်မည်ကြံသော တပည့်ပဥ္စင်းငယ်အားဆုံးမသော 'ဒုက္ခ ဖွဲ့နှောင် လူတို့ဘောင်' ဟု အစချီသော လေးချိုး၊ ဝိပ္ပလ္လာသနှင့် မဂ်ပယ်စဉ် တေးထပ်၊ ဒုစရိုက် ဆယ်ပါး မဂ်ပယ်စဉ်တေးထပ်*၅ တို့ပါဝင်သည်။ ထို့ပြင် နေရင်းဦးကောဝိဒ၏ လယ်တီဓမ္မဂီတိ ပေါင်းချုပ်*၆ တွင် လယ်တီဆရာတော်ကြီးဖွဲ့ဆိုသည်ဟုဖော်ပြထားသော သံဝေဂဝတ္ထု(၈)ပါးဘွဲ့ တေးထပ်များလည်း အပါအဝင်ဖြစ်သည်။ အရှင်ဉာဏာဒိစ္စ၏ အဖိုးတန် မန်လည်ကဗျာများ*၇ ၌ 'မအိပ်ဘဲအသက်ရှည်' အစချီ လက်ဖက်ရည်ဘွဲ့တေးထပ်ကို လယ်တီဆရာတော်ရေးဟုဖော်ပြ ထားပါသည်။ ရွှေရိုက်ဂမ္ဘီရကဗျာကျမ်း အဆုံးတွင် 'နုနယ်ရုပ်ဆင်း' အစချီသော သံဝေဂ လင်္ကာရှစ်ပုဒ်ကိုလည်း အချို့က လယ်တီဆရာတော်ရေးသည်ဟု ဖော်ပြထားကြ၏။*၈

---

*၁ ၁၂၈၁-ခုနှစ်။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့မှတွင်ဖြစ်သည်။

*၂ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်ကျမ်းကြီး၊ ပထမတွဲ။ (စာမျက်နှာ-၄၅၅)။

*၃ သင်္ခါရဘာဇနီကျမ်းကို ၁၈၇၅-ခုနှစ် မော်လမြိုင်မြို့တွင် အစောဆုံးပုံနှိပ်ခဲ့သည်။ ၁၈၈၆-ခုနှစ် ရန်ကုန်မြို့ မြန်မာသံတော်ဆင့် သတင်းစာပုံနှိပ်တိုက်ကလည်း ထပ်မံရိုက်နှိပ်ခဲ့သည်။ ထို့နောက် ခေတ်အဆက်ဆက်ရိုက်နှိပ်ကြရာတွင် ကျမ်းပြုသူအမည်ကို မဖော်ပြကြပေ။ ဟံသာဝတီပုံနှိပ်တိုက်ကရိုက်သော သင်္ခါရဘာဇနီကျမ်းတွင်မူ လယ်တီဆရာတော်ကြီးရေးသားကြောင်း ဖော်ပြထားသည်ကိုတွေ့ရသည်။

*၄ ၁၃၁၁-ခုနှစ်။ မအူပင်မြို့တွင် မဟာဗောဓိကျောင်းဒါယကာဦးစိန်ညွန့်က တာဝန်ခံရိုက်နှိပ်သည်။

*၅ ထိုကဗျာတို့ကို အလုံမြို့ ဦးရန်ငြိမ်းထံမှရကြောင်းဖော်ပြထားသည်။

*၆ ၁၃၂၁-ခုနှစ်။ ဒီမိုကရေစီပုံနှိပ်တိုက်၊ ရန်ကုန်မြို့ရိုက်မှုတွင်ဖြစ်သည်။

*၇ အရှင်ဉာဏာဒိစ္စ၏ အဖိုးတန်မန်လည်ကဗျာများ။ ရန်ကုန်မြို့။ ၁၉၇၆-ခုနှစ်။ (စာမျက်နှာ-၁၆၆)။

*၈ ၁၉၁၁-ခုနှစ်။ ဂမ္ဘီရကဗျာကျမ်း၊ ပထမတွဲ။ ရွှေကြူးကုမ္ပဏီ၊ ရန်ကုန်မြို့။

လယ်တီဆရာတော်ကြီး၏ကျမ်းစာများကို အတော်အတန်စုဆောင်းရမိပြီးနောက်၊ ကျမ်းဦးနိဒါန်း၊ ကျမ်းနိဂုံးနှင့်စာကိုယ်တို့ကိုဖတ်ရှုပြီး ဆရာတော်ကြီး၏ ဘဝဖြစ်တော်စဉ်၊ ဓလေ့စရိုက်ဝါသနာစသည်တို့ မှတ်စုများထုတ်ယူခဲ့ပါသည်။*၁ လယ်တီကျမ်းစာစုများမှသိခွင့်ရသော လယ်တီဆရာတော်ကြီး၏ဘဝတစိတ်တဒေသအချို့ကို ပမာပြရသော်–

သက္ကရာဇ် ၁၂၅၇–ခုနှစ်၊ လယ်တီဆရာတော်ကြီး မဇ္ဈိမဒေသ အိန္ဒိယနိုင်ငံသို့ကြွတော်မူစဉ်အခါ ကာလကတ္တားမြို့တွင် ဆေးရုံများသို့သွားရောက်ကြည့်ရှုလေ့လာတော်မူပြီး ဆရာဝန်များနှင့် ဗေဒင်ပညာ၊ လောကဓာတ်ပညာ–စသည်နှီးနှောပြောဆိုကြပုံအကြောင်း*၂

မုံရွာ လေ့ကူးမြို့၌ ရဟန်းတစ်ပါးကိုမကြည်ညို၍ ဆွမ်းမလောင်းဘဲ ကန်တော့၍သာ လွှတ်လေ့ရှိသော မုံရွာ လေ့ကူးရပ်က ဒါယိကာမကြီးတစ်ယောက်ကို သဒ္ဓါအမြင်ကြည်လင်အောင် ဆောင်ရွက်ခဲ့ရပုံအကြောင်း*၃ စသည်တို့ဖြစ်သည်။

ဤအဖြစ်အပျက်အကြောင်းအရာမျိုးကို ကာယကံရှင်ဖြစ်တော်မူသော လယ်တီဆရာတော်ကြီးက ပြန်လည်ထုတ်ဖော်ရေးသားတော်မမူခဲ့ပါက မည်သည့်နည်းနှင့်မျှ သိခွင့်ရကြမည်မဟုတ်၍ ထိုအချက်တို့သည် အလွန်အဖိုးထိုက်သောအချက်အလက်များဖြစ်ပါသည်။

လယ်တီဆရာတော်ကြီးသီတင်းသုံးရာဌာနများနှင့် ဆရာတော်ကြီးပြုစုတော်မူခဲ့သော ကျမ်းစာအရပ်ရပ်တို့မှ ဆရာတော်ကြီးအကြောင်းနှင့်စပ်လျဉ်းသော အချက်အလက်များကို မှတ်သားစုဆောင်းပြီးသည့်နောက်တွင် လယ်တီဆရာတော်ကြီး၏အကြောင်းရေးသားထားသော လယ်တီထေရုပ္ပတ္တိဆိုင်ရာစာအုပ်စာတမ်း၊ ဆောင်းပါးနှင့် မဟာဝိဇ္ဇာဘွဲ့ယူကျမ်းစသည်တို့ကိုစုဆောင်းရှာဖွေရပြန်ပါသည်။ စင်စစ်ဤလုပ်ငန်းကိုလည်း လယ်တီကျမ်းစာများ စုဆောင်းရှာဖွေစဉ်အခါကပင် တစ်ချိန်တည်းဆောင်ရွက်ခဲ့ခြင်းဖြစ်သည်။

ဤစာအုပ်ထုတ်ဝေရန် ပြင်ဆင်နေချိန်ကာလအထိ*၄ လယ်တီဆရာတော်ကြီး၏အကြောင်းရေးသားကြသော ထေရုပ္ပတ္တိကျမ်းများစွာ ပုံနှိပ်မူအဖြစ်ထွက်ပေါ်လာခဲ့သည်ကိုတွေ့ရသည်။ သို့ပါသော် ပုံနှိပ်မူသို့မရောက်သေးဘဲ လက်နှိပ်စက်မူအနေဖြင့် (၂)မူ*၅ မဟာဝိဇ္ဇာဘွဲ့ယူကျမ်း (၄)မူ*၆ တို့ကိုလည်း ရှာဖွေလေ့လာခဲ့ရပါသည်။ လယ်တီဆရာတော်ကြီးအကြောင်းကို ဆောင်းပါး

---

*၁ အထက်ပါမှတ်စုထုတ်ယူနည်းကို ရတနာပုံဖိုးမှတ်စု(ရွှေကိုင်းသားဆရာတော်)က ပြသပေးပါသည်။ အချို့စာအုပ်တို့ကို ကိုယ်တိုင် ထုတ်နုတ်ပေးပါသည်။

*၂ ဓိုးကုန်းမြို့မှ ပုဏ္ဏာ(၁၆)ချက်အဖြေ။ လယ်တီဆရာတော်ကြီး၏ ဗုဒ္ဓဘာသာနှင့်ထာဝရဖြဗ္ဗာကျမ်း၊ (စာမျက်နှာ–၃၉)။

*၃ လယ်တီဆရာတော်ကြီး၏ ဓမ္မဒီပနီ။ ၁၂၈၆–ခု။ (စာမျက်နှာ–၁၀၆)။

*၄ ၂၀၀၇–ခုနှစ်။ နိဝင်ဘာလ။

*၅ လက်နှိပ်စက်မူ (၂)မူမှာ အရှင်ကေလာသ၏ မန္တလေးသာသနာဝင်(အတွဲ–၂၁)ပါ မြောက်ပြင်စံကျောင်းသာသနာဝင်လာ လယ်တီဆရာတော်ဘုရားကြီးထေရုပ္ပတ္တိနှင့် မောင်လှမြတ်(မုံရွာ)၏ လယ်တီဆရာတော်နှင့်မဟာလယ်တီကျောက်စာ–စာမူနှစ်စောင်တို့ကို ဆိုလိုသည်။

*၆ ဒေါ်စန်းမြမြ၏ ‘ပထမလယ်တီဆရာတော်ဘုရားကြီး စွမ်းဆောင်ချက်သမိုင်း(၁၉၇၄)၊ ဒေါ်ခင်နွဲ့နွဲ့၏ လယ်တီဆရာတော်၏ စကားပြေကိုလေ့လာချက်(၁၉၇၉)၊ မညိုညိုစိုး၏ လယ်တီဆရာတော်၏ဘဝနှင့်စာပေ(၁၉၈၁)နှင့် Htay Htay Lwin’ History of the Maha Ledi Sasana (1998) တို့ပင် ဖြစ်ပါသည်။

အနေဖြင့် အများအပြားရှိသော်လည်း ငွေတာရီ မဂ္ဂဇင်းနှင့် ချင်းတွင်းမဂ္ဂဇင်းတို့တွင်ပါရှိသော ဆရာပါရဂူ၏ ဆောင်းပါး(၂)ပုဒ်*၁နှင့် စာပေဗိမာန်မဂ္ဂဇင်းပါ မောင်ဒီပ၏ လယ်တီဆရာတော် ဆောင်းပါးတို့ကိုသာ ရွေးချယ်လေ့လာပါသည်။*၂

ထေရုပ္ပတ္တိရှင်ဖြစ်တော်မူသော လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်နှင့် ပြုစုတော်မူခဲ့သော ဒီပနီအရပ်ရပ်ကျမ်းဂန်စာပေအဝဝတို့ကို သိသင့်သမျှသိရ ရှာသင့်သမျှရှာ၍ ရရှိပြီးသောအခါ ဆရာတော်ဘုရားကြီးသီတင်းသုံးသာသနာပြုတော်မူခဲ့သော ခေတ်ကာလ နောက်ခံကားကို သရုပ်ပေါ်အောင်ပုံဖော်နိုင်စေခြင်းငှာ သမိုင်းနောက်ခံ၊ ဒေသနောက်ခံ၊ စာပေ သမိုင်းနောက်ခံ စသည်တို့ကိုဖော်ပြထားသည့် ဆိုင်ရာအထောက်အကူပြုကျမ်းဂန်စာပေ တို့ကိုလည်း အချိန်များစွာပေး၍ရှာဖွေလေ့လာခဲ့ရပြန်ပါသည်။*၃

ဤသို့လျှင် အတန်တန်အဝဝရှာဖွေစုဆောင်းပြီးသောအခါ လယ်တီဆရာတော်ဘုရားကြီး၏ အတန်အသင့်ပြည့်စုံသော ထေရုပ္ပတ္တိတစ်စောင်ဖြစ်မြောက်လာရေးအတွက် စာရေးသူသည် နှစ်ပေါင်းများစွာအတွင်း အနည်းဆုံး လေးကြိမ်ခန့် စမ်းသပ်ရေးဖွဲ့ပူဇော်ခဲ့ပါသည်။ ပထမအကြိမ် ရေးပြီးမှုကို ဒေါ်ဒေါ်လူထုဒေါ်အမာ၊ ဆရာတော်ရွှေကိုင်းသားနှင့် ဦးလေးဦးတင်ဟိန်း(မောင်မဲ) တို့ကဖတ်ရှုပြင်ဆင်ပေးကြပါသည်။ ဒုတိယအကြိမ်ရေးပြီးသော် အခန်းအချို့ကို လယ်တီဦးလှပိုင်၊ ဆရာဦးသန်းထွတ် (ဆရာတိုက်စိုး)တို့ကဖတ်ရှုပြင်ဆင်ပေးကြပါသည်။ တတိယအကြိမ်နှင့် စတုတ္ထ အကြိမ် ရေးသားချက်အချို့တို့ကို မုံရွာမြို့ နဝမလယ်တီဆရာတော်ကြီး အရှင်ကေလာသနှင့် ဆရာကြီးဓမ္မာစရိယဦးအေးနိုင်၊ ဓမ္မာစရိယဆရာဦးမောင်မောင်လေးတို့ကဖတ်ရှုပြင်ဆင်ပေးကြ ပါသည်။ ဤအကြိမ်မှာ ပဥ္စမအကြိမ်ဖြစ်ပါသည်။ ဤနောက်ဆုံးပဥ္စမမူကို ဆရာတော်ဦးမာနိတ သိရီဘိဝံသနှင့် ဆရာဦးအောင်ထွတ်(ရန်ကုန်တက္ကသိုလ်)က အစမှအဆုံးဖတ်ရှုပြီး ပြင်ဆင်ပေးခဲ့ ပါသည်။ သို့လျှင် ဆရာသမားတို့၏ကူညီထောက်ပံ့မှုများဖြင့် အကြိမ်ကြိမ်ရေးဖွဲ့၍ အထပ်ထပ် ပြုပြင်ခဲ့ရသော ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ် ဤစာမူကြီးသည် လက်ရေးစာမူမှသည် ကွန်ပျူတာမူသို့၊ ထိုမှသည် နောက်ဆုံးပုံနှိပ်မူသို့ အဆင့်ဆင့်အဖန်ဖန် ရောက်ရှိနိုင်ခဲ့ခြင်းဖြစ်ပါသည်။

ဤသို့ လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်စာအုပ်ပုံနှိပ်မူအဖြစ်သို့ရောက်ရှိ လာလင့်ကစား စာရေးသူအဖို့မှာ အချို့သောအချက်များသည် မသေချာသေးဟူ၍လည်းကောင်း၊ အချို့သောနေရာတို့၌ မပေါ်လွင်ဘဲတိမ်၍နေသေးသည်ဟူ၍လည်းကောင်း၊ အချို့သောအကြောင်း

*၁ ဆရာပါရဂူ၏ ၁၉၆၇–ခုနှစ်၊ အောက်တိုဘာလထုတ် ငွေတာရီမဂ္ဂဇင်းပါ ‘လယ်တီဆရာတော်’ ဆောင်းပါးနှင့် ၁၉၇၈–ခုနှစ်ထုတ် ချင်းတွင်းမဂ္ဂဇင်းအတွဲ(၂)ပါ ‘လယ်တီဆရာတော်’ ဆောင်းပါးတို့ကို ဆိုလိုသည်။

*၂ လယ်တီဆရာတော်ကြီး၏ ဘဝဖြစ်တော်စဉ်ကိုဖော်ပြပြုစုထားသော လယ်တီထေရုပ္ပတ္တိစာပေများအကြောင်းကို နောက်ဆက်တွဲ(၂)တွင် ဖတ်ရှုနိုင်ပါသည်။

*၃ ဤစာပေစုတွင် ရာဇဝင်သမိုင်းကျမ်းများ၊ အတ္ထုပ္ပတ္တိစာပေများ၊ ကိုယ်တွေ့မှတ်တမ်းများ၊ စွယ်စုံကျမ်းများ၊ အဘိဓာန်ကျမ်းများ၊ လက်စွဲစာအုပ်များ၊ ဂေဇက်တီယားခေါ် ဒေသန္တရမှတ်တမ်းစာအုပ်များ၊ မြေပုံများ–ပါဝင်ပါသည်။

အရာတို့မှာ အတန်ငယ်ချဲ့မှသင့်မည်ဟူ၍လည်းကောင်း မိမိစာမူအပေါ် အားမရနိုင် စိတ်မချနိုင် လက်မလွှတ်နိုင်ဖြစ်နေဆဲဖြစ်နေတုန်းရှိနေခဲ့ပါသည်။ စင်စစ် စာရေးသူသည် ကိုယ်တိုင်မသိမမီ လိုက်သော တစ်ခေတ်တစ်ခါက အကြောင်းအရာများကို ဖော်ကြူးရသည်ဖြစ်၍ 'ဆေးချက်မပိုင် စုပ်မနိုင်သော' နေရာများစွာရှိလိမ့်မည်မှာ ကေန်ဖြစ်ပေရာ သိမီသောပုဂ္ဂိုလ်များကညွှန်ပြလျှင် ပြင်ဆင်ရန်ဝန်မလေးကြောင်းကိုလည်း တင်ကြိုရေးသားလိုပါသည်။ ဤနေရာ၌ သမုဒ္ဒရာ၏ တစ်စိတ်တစ်ဒေသကိုမြင်ရုံမျှကိုပင် သမုဒ္ဒရာအစအဆုံးကိုမြင်သလို၊ 'ငါ သမုဒ္ဒရာကိုမြင်သည်= သမုဒ္ဒေါ မယာ ဒိဋ္ဌော' ဟုပြောသကဲ့သို့ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော် စဉ်ဟူရာ၌လည်း တစ်ဘဝလုံးကိုခြုံ၍ (တစ်နည်း) တစ်ဘဝတာကို အကျဉ်းချုံ့၍ဖော်ပြထားခြင်း မျှသာဖြစ်ကြောင်း စာရှုသူတို့အနေဖြင့် နှလုံးသွင်းတော်မူကြပါရန် မေတ္တာရပ်ခံလိုပါသည်။

စာရေးသူအနေဖြင့်ကား မိမိစွမ်းအားရှိသည့်အလျောက် ထမ်းနိုင်သမျှဝန်အတိုင်းအတာမှာ ဤမျှထက်ပိုအံ့မထင်၍ မိမိလေ့လာခွင့်ရသောကာလအပိုင်းအခြားအတွင်း ဤမျှရေးသားခြင်းဖြင့် ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ကျေးဇူးတော်အနန္တကို တုံ့ဆပ်လိုက်ရပါတော့သည်။

အထူးအားဖြင့် ဤစာအုပ်ပြီးမြောက်စေရန် အစဉ်တစိုက်အားပေးတိုက်တွန်းနှိုးဆော်ခဲ့ ကြသော မန္တလေးမြို့ကဆရာတော်ဦးမာနိတသိရီဘိဝံသ၊ ဒေါ်ဒေါ်လှုထုဒေါ်အမာ၊ မုံရွာက ဆရာကြီးဦးမာကျော်၊ ဆရာဦးလှမောင် (မောင်လှမြတ်–မုံရွာ)၊ ပြည်မြို့က ဆရာကြီးဦးမြဝင်း (မြဝင်း၊ ဒဿန)၊ ရန်ကုန်မြို့က ဆရာဒေါက်တာမျိုးမြင့်(သာထွန်းပြန့်)၊ ဆရာဦးချစ်စံဝင်းတို့ အားလည်းကောင်း၊ ဤစာအုပ်ရေးသားနိုင်ရန်နှင့် ရေးသားနေစဉ်ကာလအတွင်း လူမှုဘဝ ကြောင့်ကြမှုဟူသမျှကို ကင်းရှင်းအောင်ဆောင်ရွက်ပေးခဲ့သော ဇနီးသည် မသက်သက်ခိုင်အား လည်းကောင်း၊ ဤစာအုပ်တွင် အမှာစာများချီးမြှင့်ရေးသားပေးကြကုန်သော ဆရာတော်ဘုရား များနှင့် ဆရာကြီးဦးသော်ကောင်း၊ ဆရာဦးအောင်ထွတ်တို့ကိုလည်း အထူးကျေးဇူးတင်ရှိပါကြောင်း မှတ်တမ်းတင်ဖော်ပြအပ်ပါသည်။

ဤစာအုပ်ရေးသားစဉ် လိုအပ်သောစာအုပ်စာတမ်းများစွာကိုရှာဖွေပေးကြသော တက္ကသိုလ် များဗဟိုစာကြည့်တိုက်၊ သာသနာရေးဦးစီးဌာန သာထွန်းပြန့်ရည်ညွှန်းစာကြည့်တိုက်၊ ဦးခင်မောင်စိန်(ဖော်စာပေ) နှင့် စာရေးဆရာ မောင်ဖေယျာတို့အားလည်းကောင်း၊ လယ်တီ ဆရာတော်ဘုရားကြီး သာသနာပြုတော်မူရာ အမြို့မြို့အရွာရွာ ဌာနအသီးသီးသို့ စာရေးသူနှင့်အတူ လိုက်ပါ၍ ဓာတ်ပုံရိုက်ပေးခြင်း စသည်တို့ကိုကူညီခဲ့ကြသော ညီငယ်မောင်ပြည့်ဝ(ပန်းဝေသီ)၊ ကိုသန်းလင်းနှင့် ရွှေဇင်ယော်အဖွဲ့သားများ(မုံရွာ)တို့အားလည်းကောင်း ကျေးဇူးတင်ရှိပါကြောင်း ထပ်လောင်း၍ဖော်ပြအပ်ပါသည်။ ။

မောင်အောင်မွန် (မြတ်ဆုမွန်)

၁၊ နိုဝင်ဘာလ၊ ၂၀၀၇–ခုနှစ်။

## ဤစာအုပ်ပြုစုရာ၌ကူညီကြသောဆရာတော်ကြီးများနှင့်လူပုဂ္ဂိုလ်များ

ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိကျမ်းစာပြုစုရာတွင် နှုတ်အားဖြင့် မိန့်ကြားခြင်း၊ စာရေး၍ဖြေကြားခြင်း၊ နေရာဒေသများကိုပြသပေးခြင်း၊ စာအုပ်စာတမ်း, ဓာတ်ပုံ, မြေပုံ, စာချုပ်စာတမ်းများမှစ၍ အဖိုးတန်မှတ်တမ်းမှတ်ရာများကို ကူးယူခွင့် ကြည့်ရှုခွင့်ပြုခြင်း စသည်ဖြင့် အမျိုးမျိုးသောကူညီမှုထောက်ပံ့စောင့်ရှောက်ခဲ့ကြသော ဆရာတော်များနှင့် လူပုဂ္ဂိုလ်တို့အား အောက်ပါအတိုင်း စာရင်းပြုစုမှတ်တမ်းတင်ဖော်ပြအပ်ပါသည်။

(က) ဆရာတော် သံဃာတော်အရှင်မြတ်များ

ရန်ကုန်မြို့၊ ကမ္ဘာ့ဗုဒ္ဓသာသနာပြုဆရာတော်ကြီး အရှင်သေဋ္ဌိလာဘိဝံသ
ရန်ကုန်မြို့၊ ပြည်လမ်း၊ မူလပဋ္ဌာန်းဆရာတော်ကြီး အရှင်နာရဒ
ရန်ကုန်မြို့၊ ကျားကူးဓမ္မဗိမာန်ဆရာတော်ကြီး အရှင်စက္ကိန္ဒ
ရန်ကုန်မြို့၊ ဗြဟ္မနိမ္မိတာရာမဆရာတော်ကြီး အရှင်သဟမ္ပတိ
ရန်ကုန်မြို့၊ ဖျာပုံတိုက်သစ်ဆရာတော်ကြီး အရှင်ဩဘာသာဘိဝံသ
ရန်ကုန်မြို့၊ သပြေကန်ဆရာတော်ကြီး အရှင်ဝါသေဋ္ဌာဘိဝံသ
ရန်ကုန်မြို့၊ ဓမ္မသီတဂူဆရာတော် အရှင်တိလောကသာရ(ရဝေထွန်း)
ရန်ကုန်မြို့၊ မဟာသိမ်တော်ကြီးကျောင်းတိုက်ဆရာတော် အရှင်ကုမာရ
ရန်ကုန်မြို့၊ ကလေးဝစာသင်တိုက်ဘုန်းကြီး အရှင်ပဏ္ဍိတ
ရန်ကုန်မြို့၊ ညောင်ကုန်းကျောင်းတိုက် လယ်တီစံကျောင်းဆရာတော် အရှင်ပညာသီဟ
မန္တလေးမြို့၊ ရွှေကျင်သာသနာပိုင်ကျေးမြှင်ဆရာတော်ဘုရားကြီး
မန္တလေးမြို့၊ ဝိဇိတာရုံဆရာတော်ကြီး အရှင်ဝါသန
မန္တလေးမြို့၊ မဟာဝိသုဒ္ဓါရုံ ရွှေကျင်သာသနာပိုင်ဝါဆိုဆရာတော်ကြီး
မန္တလေးမြို့၊ မဟာဝိသုဒ္ဓါရုံတိုက်သစ် မင်္ဂလဗိမာန်ဆရာတော် အရှင်ပညာသီရိ
မန္တလေးမြို့၊ မဟာဝိသုဒ္ဓါရုံတိုက်သစ် စည်ရှင်ဆရာတော် အရှင်အဂ္ဂညာနာဘိဝံသ
မန္တလေးမြို့၊ ချမ်းသာကြီးတိုက်ဆရာတော် အရှင်ဇောတိကာဘိဝံသ
မန္တလေးမြို့၊ အရှေ့ဝိသုဒ္ဓါရုံ ကန္တီကျောင်းဘုန်းကြီး အရှင်ဝဏ္ဏိတ
မန္တလေးမြို့၊ မစိုးရိမ်တိုက်ဟောင်းဆရာတော်ကြီး အရှင်ပညာသာမိ
မန္တလေးမြို့၊ တောင်ပြင်ဓမ္မာရုံစံကျောင်းဘုန်းကြီး အရှင်ဥတ္တရ
စစ်ကိုင်းမြို့၊ ရွှေကျင်သာသနာပိုင်ရွှေဟင်္သာဆရာတော်ဘုရားကြီး

စစ်ကိုင်းမြို့၊ ရွှေစေတီဆရာတော်ကြီး အရှင်သုန္ဒရ
စစ်ကိုင်းမြို့၊ ဇေတဝန်ဆေးတိုက် လယ်တီစံကျောင်းဆရာတော် အရှင်ဂုဏစာရ
စစ်ကိုင်းတောင်ရိုး မင်းကွန်းတိပိဋကဓရဆရာတော်ဘုရားကြီး
မုံရွာမြို့၊ သတ္တမလယ်တီဆရာတော်ကြီး အရှင်ဝိလာသ
မုံရွာမြို့၊ မဟာလယ်တီတိုက် နိဗ္ဗာနဒီပနီကျောင်းဆရာတော်ကြီး အရှင်နန္ဒမာလာ
မုံရွာမြို့၊ ဓမ္မပါရဂူ ပေပင်ကျောင်းဆရာတော်ကြီး အရှင်အာစိဏ္ဏ
မုံရွာမြို့၊ မြို့မရွှေဂူဆရာတော်ကြီး အရှင်ကေသရာသီရိ
မုံရွာမြို့၊ အဋ္ဌမလယ်တီဆရာတော်ကြီး အရှင်ကုန္ဒက
မုံရွာမြို့၊ နဝမလယ်တီဆရာတော်ကြီး အရှင်ကေလာသ
မုံရွာမြို့၊ ဓမ္မာရုံ ရွှေကျင်ကျောင်းဆရာတော် အရှင်ပဏ္ဍိတ
မုံရွာမြို့၊ ဘုန်းစိုးကျောင်းဆရာတော် အရှင်သီရိန္ဒ
မုံရွာမြို့၊ ဘုန်းစိုးကျောင်းဆရာတော် အရှင်ဇနက
မုံရွာမြို့၊ ရွှေစည်းခုံဂါတ်ကျောင်းဆရာတော် အရှင်ပဏ္ဍိစ္စ
မုံရွာမြို့၊ အနောက်ရေမိန်ကျောင်းဘုန်းကြီး အရှင်ပုညသေဋ္ဌ
မုံရွာမြို့၊ မာလာရာမယွန်းကျောင်းဆရာတော်ကြီး အရှင်ဉာဏုတ္တရ
မုံရွာမြို့၊ ရုပ်စုံကျောင်းဆရာတော်ကြီး အရှင်ဝေပုလ္လ
မုံရွာမြို့၊ သာစံတိုက်ဆရာတော်ကြီး အရှင်တေဇဝန္တ
မုံရွာမြို့၊ ဇေတဝန်ဆရာတော်ကြီး အရှင်ဩဘာသ
မုံရွာမြို့၊ ခါးပန်းနီဆရာတော်ကြီး အရှင်ဝဏ္ဏိတ
မုံရွာမြို့၊ မာလိမ်ကျောင်းဆရာတော်ကြီး အရှင်စန္ဒောဘာသ
မုံရွာမြို့၊ မင်းကင်းတိုက်ဆရာတော် အရှင်နန္ဒမာလာ
မုံရွာမြို့၊ မဟာကန်ဦးကျောင်းဆရာတော် အရှင်ပဒုမ
မုံရွာမြို့၊ လယ်စင်ရွာဓမ္မိကာရုံကျောင်းဘုန်းကြီး အရှင်ပဏ္ဍိတ
မုံရွာမြို့၊ ဇောင်ကြမ်းပင်တိုက်ဆရာတော်အရှင်ကုမာရ
မုံရွာမြို့၊ ကျောက္ကာတောင်ရွာ၊ အောင်ချမ်းသာမဟာဗောဓိဆရာတော် အရှင်ဇနိန္ဒ
ဘုတလင်မြို့နယ်၊ ရဲထွက်ရွာ၊ ရေဝန်းကျောင်းဆရာတော်ကြီး အရှင်တေဇဝန္တ
ဘုတလင်မြို့နယ်၊ အုတ်ဖိုလက်ပန်ရွာဘုန်းကြီး အရှင်ဝိစိတ္တ
ချောင်းဦးမြို့၊ ဓမ္မာရုံကျောင်းဆရာတော် အရှင်ဝရသမ္ဘောဓိ
ခင်မွန်ရွာ၊ ကုန်းကျောင်းဆရာတော် အရှင်ပညာဝံသ
ခင်မွန်ရွာ၊ ကျောင်းသစ်ကျောင်းဆရာတော် အရှင်တိက္ခ

ဒီပဲယင်းမြို့၊ ရွှေသိမ်တော်ကျောင်းဘုန်းကြီး အရှင်ကလျာဏသာမိ
စိုင်ပြင်ရွာ၊ ကျောင်းမကျောင်းဆရာတော် အရှင်ဓမ္မပါလ
စိုင်ပြင်ရွာ၊ မြင်ထင်ကျောင်းဆရာတော် အရှင်ပညိန္ဒ
စိုင်ပြင်ရွာ၊ ဝိဇာတကုန်းတော်ဆရာတော် အရှင်သူရိန္ဒ
စိုင်ပြင်ရွာ၊ အုတ်ရှစ်ကျောင်းဘုန်းကြီး အရှင်နာဝိက
စိုင်ပြင်ရွာ၊ ကန်လယ်ကျောင်းဆရာတော် အရှင်မာနိတ
စိုင်ပြင်ရွာ၊ လယ်တီဝံသကျောင်းဆရာတော် အရှင်ကောဝိဒ
ဆားလင်းကြီးမြို့၊ တောင်ပေါ်ကျောင်းဆရာတော်ကြီး အရှင်အာဒိစ္စဝံသ
အလုံမြို့၊ ရေယဉ်ရပ် ရွှေကျောင်းဆရာတော်ကြီး အရှင်ခေမိန္ဒ
ပျဉ်းမနားမြို့၊ နံတော်စဉ်ဆရာတော်ကြီး အရှင်ရေဝတ
ပျဉ်းမနားမြို့၊ ကြိတ်အင်းဆရာတော်ကြီး အရှင်နန္ဒဝံသ
ပျဉ်းမနားမြို့၊ ကိုးခန်းကြီးဘုရားကျောင်းတိုက် အရှင်ဥတ္တမ
ပျဉ်းမနားမြို့၊ လယ်တီစံကျောင်း ဒုတိယဆရာတော် အရှင်အာစိဏ္ဏ
ပျဉ်းမနားမြို့၊ လယ်တီစံကျောင်း တတိယဆရာတော် အရှင်ကလျာဏဓဇ
ပျဉ်းမနားမြို့၊ ပုံသကူတောရဘုန်းကြီး အရှင်တိလောက
ပျဉ်းမနားမြို့၊ အင်ကြင်းမြိုင်တောရ၊ မြို့မစမ်းမြိုင်တိုက်သစ်ဆရာတော် အရှင်သုမန
ပျဉ်းမနားမြို့၊ ဓမ္မိကတောရဆရာတော် အရှင်အာဒိစ္စ
ပခုက္ကူမြို့၊ မဟာဝိသုတာရာမတိုက် အရှင်ကေလာသ(ဝိဇ္ဇာဂုဏ်ထူး)
ပခုက္ကူမြို့၊ မဟာဝိသုတာရာမတိုက် ရတနာသိဃ်ဘုန်းကြီး အရှင်ပညာဇောတ
ပခုက္ကူမြို့၊ မဟာဝိသုတာရာမတိုက် တိပိဋကာလင်္ကာရဘုန်းကြီး အရှင်ပညာသီဟ
ပခုက္ကူမြို့၊ ကပ်ကျော်ကျောင်းဘုန်းကြီး အရှင်သီလဝံသ
ရေစကြိုမြို့၊ ရွာငယ်ရွာ၊ မဟာဝိစိတ္တာရာမကျောင်းဆရာတော် အရှင်အဂ္ဂရ
ရေစကြိုမြို့၊ ရွာငယ်ရွာ၊ အောင်သာကျောင်းဆရာတော် အရှင်ကုသလ
ရေစကြိုမြို့၊ ကပ်ကျော်ကျောင်းဆရာတော်ကြီး အရှင်သီလဝံသ
ပြည်မြို့၊ ဝိပဿနာတောရ(လယ်တီတောရ)ဘုန်းကြီး အရှင်ကောဝိဒ
ပြည်မြို့၊ ဓမ္မိကာတောရဆရာတော် အရှင်အာဒိစ္စ
မင်းလှမြို့၊ ဓမ္မာရုံ စံကျောင်းတိုက်ဆရာတော် အရှင်သုဝဏ္ဏ
မင်းလှမြို့၊ ကျောက်တံခါး စိန်ကန့်လန့်တောရဆရာတော် အရှင်ဥတ္တမ
မြင်းခြံမြို့၊ ရန်အောင်မြင်ပိဋကတ်တိုက်ဆရာတော် အရှင်သုနန္ဒ
မြင်းခြံမြို့၊ ဝေဇယန္တာကျောင်းဆရာတော် အရှင်ဥတ္တရ

ရေနံချောင်းမြို့၊ ရွှေမင်းဝန်တိုက်ဝါကျောင်းဆရာတော် အရှင်နန္ဒဝံသ
ရေနံချောင်းမြို့၊ ရွှေမင်းဝန်ပုပ္ဖါရုံကျောင်းဆရာတော် အရှင်ကောသလ္လ
ဝမ်းတွင်းမြို့၊ သိမ်တောင်တိုက် အရှင်ဓမ္မိက
ဝမ်းတွင်းမြို့၊ သိမ်တောင်တိုက် အရှင်ကောဏ္ဍည
ဝမ်းတွင်းမြို့၊ သိမ်တောင်တိုက် အရှင်နာရဒ
ပျော်ဘွယ်မြို့၊ သိမ်ကျောင်းတိုက်ဆရာတော်ကြီး အရှင်ပဒုမ္မ
မလှိုင်မြို့၊ အုတ်ဖိုကန်ဆရာတော်ကြီး အရှင်စန္ဒိမာ
တောင်သာမြို့၊ ရေလည်ကျောင်းဆရာတော်ကြီး အရှင်နန္ဒဝံသ
မြစ်သားမြို့၊ သိမ်တောင်တောရဆရာတော်ကြီး အရှင်သံဝရဗုဒ္ဓိ
တပ်ကုန်းမြို့၊ ရွှေဥဒေါင်းတောရစိန်ရောင်ခြည်ကျောင်းဆရာတော် အရှင်မဏ္ဍလ
မိတ္ထီလာမြို့၊ ဝမ်းတော်ပြည့်ဆရာတော်ကြီး အရှင်သူရိယ
မိတ္ထီလာမြို့၊ ရေလယ်ကျောင်းဆရာတော် အရှင်လာဘဝတ(ဘုန်းဘုန်းလေး)
ပေါင်မြို့နယ်၊ ကတွန်ကျေးရွာ၊ ပန်းကုန်းကျောင်းဆရာတော် အရှင်ပဏ္ဍိတ
ဘီးလင်းမြို့၊ ကုသိန္နာရုံဆံတော်ရှင်ဘုန်းကြီး အရှင်အဂ္ဂသိရီ
ကျိုက်ထိုမြို့၊ သေက္ကျတောင်ဘုန်းကြီး အရှင်ပညောဘာသ
ပုသိမ်မြို့၊ မောင်းထောင်တိုက်ဘုန်းတော်ကြီး အရှင်မာနိတသိရီ
ပုသိမ်မြို့၊ ကုန်းသာကျောင်းတိုက်ဆရာတော် အရှင်ဝိလာသ
သာပေါင်းမြို့၊ မှန်စီကျောင်းဆရာတော်ကြီး အရှင်ပဏ္ဍိတ
ကွမ်းခြံကုန်းမြို့၊ တော်ကူးကြီးရွာ၊ လယ်ပေါ်ကျောင်းဆရာတော်ကြီး အရှင်ရေဝတ
ကွမ်းခြံကုန်းမြို့၊ ဓမ္မိကာရုံကွင်းကျောင်းဆရာတော် အရှင်ဇဝနတိက္ခ
ကော့မှူးမြို့နယ်၊ ကသစ်ကုန်းကျေးရွာ၊ အရိမဒ္ဒနာရာမဆရာတော် အရှင်စန္ဒောဘာသ

(ခ) လူပုဂ္ဂိုလ်များ

ရန်ကုန်မြို့၊ မင်းကြီးဦးစန်းမောင်(ရွေးချယ်တင်မြှောက်ပွဲကော်မရှင်အဖွဲ့ဝင်)
ရန်ကုန်မြို့၊ ကြီးပွားရေးဦးသိန်း
ရန်ကုန်မြို့၊ အဘိဓမ္မာပြန့်ပွားရေးအသင်းဥက္ကဋ္ဌဦးကျော်
ရန်ကုန်မြို့၊ ဓမ္မယောသကဦးမောင်မောင်
ရန်ကုန်မြို့၊ ဆရာကြီးဦးရွှေကျော်(ယခင်ထူးကြီးဆရာတော်)
ရန်ကုန်မြို့၊ ဆရာကြီးဦးကိုလေး(ဖေယျာမောင်)
ရန်ကုန်မြို့၊ ဆရာကြီးဦးဝန်(မင်းသုဝဏ်)

ရန်ကုန်မြို့၊ ဆရာကြီးဦးသိန်းဟန်(ဇော်ဂျီ)
ရန်ကုန်မြို့၊ စာရေးဆရာငြိမ်းကျော်
ရန်ကုန်မြို့၊ မဟာသဒ္ဓမ္မဇောတိကဓဇဆရာဝန်ကြီးဦးသာလှ
ရန်ကုန်မြို့၊ စာရေးဆရာကြီးဦးရန်အောင်
ရန်ကုန်မြို့၊ ဆရာကြီးဦးလှမောင်(နိုင်ငံတော်ကောင်စီဝင်)
ရန်ကုန်မြို့၊ ဦးအောင်(ဉာဏ်လင်းစာပေ)
ရန်ကုန်မြို့၊ ဒေါ်တုတ်(မြစ်သားဦးစံဖေ၏သမီး)
ရန်ကုန်မြို့၊ ကဗျာဆရာကြီးသျှင်သန်းမေ(ဦးဘသန်း)
ရန်ကုန်မြို့၊ စာရေးဆရာကြီးဦးသော်ဇင်
ရန်ကုန်မြို့၊ ဆရာကြီးဒဂုန်ဦးစန်းငွေ
ရန်ကုန်မြို့၊ ဆရာကြီးဦးဆန်းထွန်း
ရန်ကုန်မြို့၊ ဆရာကြီးဦးမာဃ
ရန်ကုန်မြို့၊ ဆရာကြီးဦးထွန်းလှိုင်(ဝိနယပါရဂူ)
ရန်ကုန်မြို့၊ ဆရာပါရဂူ
ရန်ကုန်မြို့၊ ဆရာဦးသန်းထွတ်(တိုက်စိုး)
ရန်ကုန်မြို့၊ ဆရာဦးသော်ကောင်း
ရန်ကုန်မြို့၊ ဦးမောင်မောင်ကြီး (ကျောင်းဒကာကြီးဦးမှူ၏မြေး)
မန္တလေးမြို့၊ ကြီးကြီးထား(ရွှေလက်ဝါးဦးကျော်ရန်၏သမီး)
မန္တလေးမြို့၊ ယူနီဗာဆယ်ဒေါ်တင်တင်ဦး(လယ်တီကျောင်းဒကာဦးကြယ်၏မြေး)
မန္တလေးမြို့၊ အသားစားရှောင်ကျဉ်ရေးဦးကျော်လှ
မန္တလေးတက္ကသိုလ်စာကြည့်တိုက်မှူး(ဟောင်း)ဦးမောင်မောင်
ရွှေဘိုမြို့၊ ဆရာဦးသန်းထွန်း (ရွှေဘို)
မိုးကုတ်မြို့၊ ဦးကင်း
ကြပ်ပြင်မြို့၊ ဦးခင်မောင်
မုံရွာမြို့၊ ဇောတိကဦးဘထူး
မုံရွာမြို့၊ စန်းမြဝတီဦးဘသက်
မုံရွာမြို့၊ ရတနာပုံရပ်ဆရာဦးစိုးဂေါင်
မုံရွာမြို့၊ ဒေါ်အေး(လယ်တီပဏ္ဍိတဦးမောင်ကြီး၏ဇနီး)
မုံရွာမြို့၊ ဒေါ်တင်ဦး(လယ်တီပဏ္ဍိတဦးမောင်ကြီး၏သမီး)
မုံရွာမြို့၊ ဒေါ်တင်တင်(ဆရာသဲကြီးသမီး)

မုံရွာမြို့၊ နေဝင်းရုပ်ရှင်ရုံပိုင်ရှင် ဦးလှဖေ၏သားဦးအောင်သန်း
မုံရွာမြို့၊ ဒေါ်ကြည်(လယ်တီကျောင်းဒကာဦးလူနီ၏မြေး)
မုံရွာမြို့၊ ဒေါ်စိန်မြ(သံခိပ်အသင်းသူ)
မုံရွာမြို့၊ ဦးလှမောင်(မောင်လှမြတ်-မုံရွာ)
မုံရွာမြို့၊ ဆရာဦးအုံ့မောင်(စာရေးဆရာမောင်အုံ့)
မုံရွာမြို့၊ ဆရာကြီးဦးမာကျော်
မုံရွာမြို့၊ ဆရာဦးအောင်ခန့်(ဝဏ္ဏသိရီ)
မုံရွာမြို့၊ ဆရာဦးဝင်းမောင်(သမိုင်း)
မုံရွာမြို့၊ ဦးသောင်းညွန့်(ချင်းတွင်းဂျာနယ်)
မုံရွာမြို့၊ ကိုသန်းလင်း(ရွှေစင်ရော်)
ဘုတလင်မြို့၊ ကိုစောသိန်းဦး
ဘုတလင်မြို့နယ်၊ ဝက်ရဲရွာကျေးရွာဥက္ကဌဦးထွန်း
စိုင်ပြင်ရွာ၊ ဦးပြည့်စုံ(မြေစာရင်းရုံး)
စိုင်ပြင်ရွာ၊ ဦးခင်မောင်ဝင်း
ဆားလင်းကြီးမြို့၊ မိုင်းအင်ဂျင်နီယာဦးရဲမြင့်
အမရပူရမြို့၊ သံခိပ်အသင်းသူဒေါ်ကြိမ်
စစ်ကိုင်းမြို့၊ စိတ္တသုခချောင် ဦးတင်ဦး(လယ်တီဆရာသိန်း၏သား)
ပျဉ်းမနားမြို့၊ ဦးအောင်ကြီး(အရှင်အာဒိစ္စ)
ပျဉ်းမနားမြို့၊ ဦးသွင်(ရတနာကုန်သည်ကြီး)
ပျဉ်းမနားမြို့၊ ကျောင်းအုပ်ဆရာကြီးဦးသန်းဖေ
ပျဉ်းမနားမြို့၊ ဒေါ်ခင်စိန်မူ(ဦးလန်း၏မြေး)
ပျဉ်းမနားမြို့၊ ဒေါ်ခင်ကြည်(ဦးလန်း၏မြေး)
ပြည်မြို့၊ ပြည်တက္ကသိုလ်ပါမောက္ခချုပ်(ငြိမ်း)ဆရာကြီးဦးမြဝင်း(မြဝင်း-ဒဿန)
ပုဂံမြို့၊ ပြဟ္မစာရီမွန်မိုကေ
ပြည်နယ်ဆရာဝန်ကြီး ဒေါက်တာဦးမောင်မောင်လွင်
ထားဝယ်မြို့၊ ပါဠိဌာနကထိက(ငြိမ်း) ဆရာကြီးဦးကျော်ရှိန်
ထားဝယ်မြို့၊ ဦးသန်းဆွေ(မောင်သန်းဆွေ-ထားဝယ်)
ပေါင်မြို့နယ်၊ ကတွန်ကျေးရွာ ကဒိုက်မိုင်းဦးကုလားငယ်
ရေနံချောင်းမြို့၊ ကိုနေဝင်း

# လယ်တီဆရာတော်ဘုရားကြီး၏ပုံတော်များ



လယ်တီဆရာတော်ကြီး
(လန်ဒန်မြို့၊ပါဠိအသင်းသို့ပို့ရန် ရိုက်ကူးသောပုံ။)



လယ်တီဆရာတော်ကြီး
(ရန်ကုန်မြို့တွင်ရိုက်ကူးသောပုံ။)



လယ်တီဆရာတော်ကြီး
(ပျဉ်းမနားတောရ၌နေစဉ်ရိုက်ကူးသောပုံ။)

# လယ်တီဆရာတော်ဘုရားကြီး၏ပုံတော်များ



လယ်တီဆရာတော်ကြီး
(ပျဉ်းမနားမြို့၌ရိုက်ကူးထားသောပုံ။)



လယ်တီဆရာတော်ကြီး
(ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက်)



လယ်တီဆရာတော်ကြီး
(ရန်ကုန်မြို့ ဓမ္မသဝနအသင်း)

# လယ်တီဆရာတော်ဘုရားကြီး၏ပုံတော်များ



လယ်တီဆရာတော်ကြီး
(မစိုးရိမ်ပါဠိအဘိဓာန်ကြီးအတွက်ရိုက်ကူးသောပုံ။)



လယ်တီဆရာတော်ကြီး
(မုံရွာမြို့တွင်ရိုက်ကူးသောပုံ။)



လယ်တီဆရာတော်ကြီး
(သာပေါင်း၌တောရနေစဉ်ရိုက်ကူးသောပုံ။)

# လယ်တီဆရာတော်ဘုရားကြီး၏ပုံတော်များ



လယ်တီဆရာတော်ကြီး
(ပျဉ်းမနားမြို့တွင်ရိုက်ကူးသောပုံ)



လယ်တီဆရာတော်ကြီး
(ရန်ကုန်မြို့တွင်ရိုက်ကူးသောပုံ)



လယ်တီဆရာတော်ကြီး
(ရန်ကုန်မြို့ဗုဒ္ဓသာသနာပြုအသင်း)

# လယ်တီဆရာတော်ဘုရားကြီး၏ပုံတော်များ



လယ်တီဆရာတော်ကြီး



လယ်တီဆရာတော်ကြီး
(ဆပုဂံတောရ၌သီတင်းသုံးစဉ်ကရိုက်ကူးသောပုံ။)

## လယ်တီဆရာတော်ဘုရားကြီး၏ပုံတော်များ





လယ်တီဆရာတော်ကြီး(မုံရွာမြို့တွင်သီတင်းသုံးတော်မူစဉ်ကရိုက်ကူးထားသောပုံ။)

# လယ်တီဆရာတော်ဘုရားကြီး၏ရုပ်တုနှင့်ပုံကားများ



(ကွမ်းခြံကုန်းဓမ္မိကာရုံကျောင်း)



(မုံရွာမြို့မဟာလယ်တီတိုက်)



(စိုင်ပြင်ရွာကျောင်းမကျောင်း)



(စိုင်ပြင်ရွာရွှေချက်သိုဇိမာန်)



(ပျဉ်းမနားမြို့လယ်တီစံကျောင်း)

# လယ်တီဆရာတော်ဘုရားကြီး၏ရုပ်တုနှင့်ပုံကားများ



(မုံရွာမြို့၊မဟာလယ်တီတိုက်)



(ရွှေတောင်မြို့၊လယ်တီပိဋကတ်တိုက်)



(အလုံမြို့၊ရွှေတောင်ဦးတောင်၊လယ်တီဂူ)

# လယ်တီဆရာတော်ဘုရားကြီး၏ရုပ်တုနှင့်ပုံကားများ




(မုံရွာမြို့၊မဟာလယ်တီတိုက်)



(မုံရွာမြို့၊ရွှေစည်းခုံဘုရား)



(မုံရွာမြို့၊မဟာလယ်တီတိုက်)

# လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်

## [ပထမပိုင်း]

## ဇာတိဒေသနှင့်ငယ်ရွယ်စဉ်ဘဝ

## (သက္ကရာဇ် ၁၂၀၈–သက္ကရာဇ် ၁၂၂၉)*၁

**ကျမ်းစာနိဂုံးမှ ဘဝနိဒါန်းသို့**

ရှေးရှေးသောကျမ်းပြုဆရာတော်ကြီးတို့သည် ကျမ်းတစ်ကျမ်းကိုပြုစုကြရာတွင် ထိုကျမ်းပြုစုပြီးမြောက်၍ ကျမ်းနိဂုံးသို့ရောက်သောအခါ ဤကျမ်းပြုရန် တိုက်တွန်းသောပုဂ္ဂိုလ်၏အကြောင်း၊ ဤကျမ်းပြုရသောကုသိုလ်ကြောင့် မိမိတောင့်တလိုသော ဆုတောင်းစသည်တို့ကို ထည့်သွင်းရေးသားလေ့ရှိပါသည်။ အချို့သောကျမ်းပြုအရှင်တို့ကမူ ဤကျမ်းကို မည်သည့်ခုနှစ်၊ မည်သည့်မင်းလက်ထက်၊ မည်သည့်ကျောင်းတိုက်၌နေထိုင်စဉ်အခါ ပြုစုရေးသားပြီးစီးခဲ့ကြောင်းကိုလည်း ရေးသားတော်မူကြပါသည်။ အချို့သောကျမ်းပြုအရှင်တို့ကမူ ဤကျမ်းကိုပြုစုသော ကျမ်းပြုဆရာမိမိသည် မည်သည့်ခုနှစ်၊ မည်သည့်ခေတ်ကာလက၊ မည်သည့်အရပ်ဌာန၌ ဖွားမြင်ခဲ့ကြောင်းမှစ၍ မိမိ၏ထေရုပ္ပတ္တိဖြစ်စဉ်ကို မကျဉ်းမကျယ်ရေးဖွဲ့ခဲ့ကြပြန်လေသည်။ မည်သို့ပင်ဆိုစေ ဤသို့ကျမ်းနိဂုံးတို့၌ဖော်ပြခဲ့သောကျမ်းပြုအရှင်တို့၏အတ္ထုပ္ပတ္တိအကျဉ်းတို့သည် ကိုယ်တိုင်ရေးအတ္ထုပ္ပတ္တိစာပေဖြစ်ပေါ်လာစေမည့်သန္ဓေတည်စ ကလလရေကြည်ပင်ဖြစ်သည်ဟု မှတ်ယူနိုင်ပါသည်။

လယ်တီဆရာတော်ဘုရားကြီးသည် သင်္ဂြိုဟ်မဟာဋီကာသစ်၊ နိရုတ္တိဒီပနီပါဠိမှစ၍ ကျမ်းပေါင်းတစ်ရာကျော်ကိုပြုစုတော်မူခဲ့သော ဂန္ထကာရကကျမ်းပြုအကျော်ဆရာတော်ကြီးတစ်ပါးဖြစ်သည်နှင့်အညီ ရှေးရှေးသောကျမ်းပြုဆရာတို့၏ဓလေ့မူအတိုင်း မိမိပြုစုသောကျမ်း၏အဆုံး နိဂုံးပိုင်းတွင် မိမိ၏ဘဝဖြစ်စဉ်ထေရုပ္ပတ်နှင့်စပ်သောအကြောင်းချင်းရာတို့ကိုလည်းရေးသားတော်မူလိမ့်မည်ဟု မှတ်ယူဖွယ်ရှိလေသည်။ သို့ပါသော် လယ်တီဆရာတော်ကြီးသည် အနေကဂန္ထကာရကခေါ် ကျမ်းပေါင်းများစွာကိုပြုစုတော်မူခဲ့သော ကျမ်းပြုအကျော်ဆရာတော်ကြီးဖြစ်တော်မူလင့်ကစား ဆရာတော်ကြီးပြုစုတော်မူခဲ့သော ထိုထိုကျမ်းစာတို့၏အဆုံးနိဂုံးတွင် မိမိနှင့်စပ်သောအကြောင်းချင်းရာတို့ကို

---

*၁ အေဒီ ၁၈၄၆–ခုနှစ်၊ ဧပြီလမှ အေဒီ ၁၈၆၈–ခုနှစ်၊ ဧပြီလအထိဖြစ်သည်။

ထုတ်ဖော်ပြသသောအလေ့ နည်းပါးတော်မူလှသည်ဟု ဆိုရလောက်အောင်ပင် အလွန်သိုဝှက်တော်မူခဲ့သည်ကိုသာ တွေ့မြင်ရပါသည်။

စင်စစ် လယ်တီဆရာတော်ဘုရားကြီးသည် မိမိ၏ကိုယ်ရေးကိုယ်တာကိစ္စနှင့်စပ်လာလျှင် မည်သည့်အခါမျှ အလေးမူအရေးယူ၍ ဆောင်ရွက်တော်မူလေ့မရှိဘဲ သာသနာအကျိုး, လောကအကျိုးကိုသာ အခါမလပ်စဉ်းစားကြံစည်ဆောင်ရွက်နေတော်မူလေ့ရှိသည်ဖြစ်ရကား ဆရာတော်ကြီး၏စာပေတို့တွင် ဆရာတော်ကြီး၏ဘဝဖြစ်စဉ်စသောအကြောင်းတို့ကို မတွေ့ရသည်မှာလည်း အဆန်းဟူ၍ကား မဆိုနိုင်ပေ။

သို့ပါသော် လယ်တီဆရာတော်ဘုရားကြီး၏ရှေးဦးလက်ရာများဖြစ်သော သဒ္ဒါပြဟ်မဟာဋီကာသစ်၊ နိရုတ္တိဒီပနီပါဌ်၊ ပရမတ္ထသံခိပ်နှင့် ပဋိစ္စသမုပ္ပါဒဒီပနီစသော ကျမ်းအချို့၏ နိဂုံးပိုင်းတွင်မူ ရှေးရှေးသောကျမ်းပြုစဉ်လာ ထုံးမူရာကိုမပစ်ပယ်ဘဲ ဆရာတော်ကြီးသည် မိမိ၏ဇာတိဌာနေမွေးရပ်မြေနှင့် ဖွားရာသက္ကရာဇ်မျှကိုမူကား တိုတိုတိတိတစ်ဂါထာမျှ သံပေါက်လင်္ကာတစ်ပုဒ်မျှဖြင့် ရေးသားဖွဲ့ဆိုဖော်ပြတော်မူခဲ့ဖူးပါသည်။

သို့ဖော်ပြတော်မူသောကြောင့်ပင် နှောင်းလူတို့အဖို့ လယ်တီဆရာတော်ကြီး၏ဇာတိဌာနေနှင့် ဖွားတော်မူရာသက္ကရာဇ်စသည်တို့ကို တိတိကျကျသိခွင့်ရကြပါသည်။ သို့မဟုတ်ပါမူ ဆရာတော်ကြီး၏ဖွားရာဇာတိနှင့်စပ်၍ဖြစ်စေ၊ ဖွားရာသက္ကရာဇ်နှင့်စပ်၍ဖြစ်စေ မူအမျိုးမျိုးကွဲပြား အငြင်းပွားစရာအချက်များ ဖြစ်လာနိုင်ပါသည်။

လယ်တီဆရာတော်ဘုရားကြီးကိုယ်တော်တိုင် ရေးသားဖော်ပြတော်မူခဲ့သော ထိုဖွားရာဌာနေဇာတိမြေနှင့် သက္ကရာဇ်ကာလဖော်ပြထားပုံတို့ကို ဤနေရာ၌ကောက်နုတ်တင်ပြရလျှင် အောက်ပါအတိုင်းဖြစ်လေသည်။

(က) သဒ္ဒါပြဟ်မဟာဋီကာသစ်ပါဌ်ကျမ်းနိဂုံးတွင်–

တွေ္တာဝတာစ–

နဂရေ ဒီပရင်္ဂမှိ၊ ဂါမေ စိုင်ပြင်တိနာမကေ။

ဗဿူသုညစမ္မေကမှိ၊ သာကေ ဇာတေန ယာ မယာ။*၁–ဟူ၍ဖော်ပြထားပြီး

*၁ လယ်တီဆရာတော်ကြီးသည် မိမိဖွားရာသက္ကရာဇ်ကို ၁၂၆၉–ခုနှစ်ရိုက် သဒ္ဒါပြဟ်မဟာဋီကာသစ်ပါဌ်၌ 'ဗဿူသုညစမ္မေကမှိ' ဟုဖော်ပြခဲ့ပြီး၊ ၁၂၈၅–ခုနှစ်ရိုက် သဒ္ဒါပြဟ်မဟာဋီကာသစ်ပါဌ်တွင်– 'အင္ဂသုညဒွိရေကမှိ' ဟူ၍ဖော်ပြခဲ့ပါသည်။ လယ်တီဆရာတော်ကြီး၏ သဒ္ဒါပြဟ်မဟာဋီကာသစ်ပါဌ်။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၉–ခုနှစ်။ (စာမျက်နှာ–၄၀၇)နှင့် သဒ္ဒါပြဟ်မဟာဋီကာသစ်ပါဌ်။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၅–ခုနှစ်။ (စာမျက်နှာ–၃၈၂)။ သဒ္ဒါပြဟ်မဟာဋီကာသစ်အဖွင့် အနုဒီပနီကျမ်း၌ 'ဗဿူ' ကို အင္ဂသင်္ချာယ သင်္ကေတဝစနံ။ 'စမ္မံ' တိ ဒွိသင်္ချာယ။ ကေဠ ဒုကဠ သုညဠ အင္ဂစ႒ဟိ ဂဏနက္ကမော–ဟုဖွင့်ဆိုထားပါသည်။ လယ်တီဆရာတော်ကြီး၏ အနုဒီပနီပါဌ်။ ဟံသာဝတီပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၂၀–ပြည့်နှစ်။ (စာမျက်နှာ–၃၂၃)။ 'ဗဿူသုညစမ္မေကမှိ' ဟူသော သင်္ချာကိန်းသည် ဗေဒင်သင်္ချာဖြစ်ပြီး၊ 'အင္ဂသုညဒွိရေကမှိ' မှာ အများသုံးပါဠိသင်္ချာကိန်းဖြစ်လေသည်။ ဒဂုန်ဦးစန်းငွေ၏ နေ့သင့်နံသင့်ဗေဒင်သုံးသင်္ချာနှင့် ပိဋကသင်္ချာ(ဆောင်းပါး)။ ငွေတာရီမဂ္ဂဇင်း၊ အမှတ်–၃၄၃။ ၁၉၈၉–ခုနှစ်၊ ဖေဖော်ဝါရီလ။ (စာမျက်နှာ ၂၆–၂၇)။

မြန်မာအနက်မှာ–

[တ္တော၀တာစ–ဤမျှလောက်သောစကားအစဉ်ဖြင့်လည်း၊ ဒီပရင်္ဂမှိ–ဒီပဲယင်းအမည်ရှိသော၊ နဂရေ–မြို့၌၊ စိုင်ပြင်တိနာမကေ–စိုင်ပြင်အမည်ရှိသော၊ ဂါမေ–ရွာကြီး၌၊ ဗသျှုသုညစမ္မေကမှိ–၁၂၀၈–ခုဟုဆိုအပ်သော၊ သာကေ–ဂေါဇာသက္ကရာဇ်၌၊ ဇာတေန–ဘွားရင်းမူလဖြစ်ထသော]*[၁] –ဟူ၍ဖြစ်ပါသည်။

(ခ) နိရုတ္တိဒီပနီပါဌ်ကျမ်းနိဂုံးတွင်–

တ္တော၀တာ စ–

နဂရေ ဒီပရင်္ဂမှိ၊ ဂါမေ စိုင်ပြင်တိနာမကေ။

အဌသုညဒွိရေကမှိ၊ သာကေ ဇာတေန ယာ မယာ။*[၂] –ဟူ၍ဖော်ပြထားပြီး

မြန်မာအနက်မှာ–

[ဒီပရင်္ဂမှိ–ဒီပရင်းအမည်ရှိသော၊ နဂရေ–မြို့ကြီး၌၊ စိုင်ပြင်တိနာမကေ–စိုင်ပြင်အမည်ရှိသော၊ ဂါမေ–ရွာကြီး၌၊ (ဤနှစ်ပုဒ်ကို ဇာတေန၌စပ်)၊ အဌသုညဒွိရေကမှိ–၁၂၀၈ ဟုဆိုအပ်သော၊ သာကေ–မြန်မာသက္ကရာဇ်၌၊ ဇာတေန–ဘွားမြင်ထသော]*[၃] –ဟူ၍ဖြစ်ပါသည်။

(ဂ) ပရမတ္ထသံခိပ်ကျမ်းနိဂုံးတွင်–

အဌ်,သုည်,ဒွိ,ဧက်၊ သက္ကရာဇ်၊ ဖွားလစ် ကျမ်းဆရာ။*[၄] –ဟူ၍ဖြစ်ပါသည်။

ပြဆိုခဲ့သော သင်္ဂြိုဟ်မဟာဋီကာသစ်ပါဌ်၊ နိရုတ္တိဒီပနီပါဌ်နှင့် ပရမတ္ထသံခိပ်ကျမ်းစသည့်ကျမ်းစာများ၏နိဂမနဂါထာခေါ် နိဂုံးပိုင်းဂါထာလာစာသားအချို့ကို အထောက်အထားပြု၍ပင် လယ်တီဆရာတော်ဘုရားကြီးသည် ကောဇာသက္ကရာဇ် ၁၂၀၈–ခုနှစ်တွင် ဒီပဲယင်းမြို့အပိုင် စိုင်ပြင်ရွာ၌ဖွားမြင်တော်မူခဲ့ပုံ ဘဝနိဒါန်းကိုအစအဦးခေါင်းတည်ပြုကာ ထို ၁၂၀၈–ခုနှစ် ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးဖွားတော်မူစဉ်အချိန်က မင်းနေပြည်တော်ဖြစ်ခဲ့သော အမရပူရမြို့တော်နှင့်တကွ ဆရာတော်ကြီး၏ဇာတိရပ်ရွာ ဒီပဲယင်း,စိုင်ပြင်စသည့်ဒေသတို့၌ ဖြစ်ပျက်နေခဲ့သော ခေတ်ကာလသရုပ်တို့ကိုထုတ်ဖော်လျက် ကျေးဇူးတော်ရှင်လယ်တီဆရာတော်ဘုရားကြီး၏ ဘဝဖြစ်တော်စဉ်ထေရုပ္ပတ္တိကို အကျယ်ဖွင့်ဆိုစတင်ရေးသားဖော်ပြရန်ဖြစ်ပါသည်။

---

*[၁] ဦးကဝိ၏သင်္ဂြိုဟ်ဋီကာသစ်နိဿယ၊ ဒုတိယတွဲ။ ဟံသာ၀တီသတင်းစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၈၉၁–ခုနှစ်။ (စာမျက်နှာ–၃၉၁)။

*[၂] လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီကျမ်း။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၇–ခုနှစ်။ (စာမျက်နှာ–၃၉၅)။ ဤဂါထာအတိုင်း ပဋိစ္စသမုပ္ပါဒဒီပနီကျမ်း၏ နိဂုံး၌လည်း တွေ့ရသည်။ လယ်တီဆရာတော်ကြီး၏ ပဋိစ္စသမုပ္ပါဒဒီပနီ။ ဟံသာ၀တီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၀–ပြည့်နှစ်။ (စာမျက်နှာ–၂၁၉)။

*[၃] လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီကျမ်း၏ နိဿယနက်ကျဉ်း။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၇–ခုနှစ်။ (စာမျက်နှာ–၂၀၂)။

*[၄] လယ်တီဆရာတော်ကြီး၏ ပရမတ္ထသံခိပ်ကျမ်း။ ဗုဒ္ဓသာသနာအဖွဲ့၊ ရန်ကုန်မြို့။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၅၂)။

မြန်မာသက္ကရာဇ် ၁၂၀၈–ခုနှစ်

'ရွှေဘိုမင်း၊ ကုန်းဘောင်မင်း၊ သာယာဝတီမင်း'ဟု အမည်သုံးမျိုးဖြင့်ထင်ရှားခဲ့သော ကုန်းဘောင်မင်းဆက်၏အဌမမြောက် လောကစူဠာမဏိစေတီတော်ဒါယကာ သာယာဝတီမင်း၊ (အေဒီ ၁၈၃၇–၁၈၄၆)သည် နောင်တော်ဖြစ်သူဘကြီးတော်မင်း(အေဒီ ၁၈၁၉–၁၈၃၇)*၁ ကိုပုန်ကန်၊ စကြာမင်းကလေးဟုထင်ရှားခဲ့သူ ညောင်ရမ်းမြို့စား(အေဒီ ၁၈၁၂–၁၈၃၈)ကိုရေဋ္ဌချ၊*၂ မရီးတော်သူ နန်းမတော်မယ်နု(အေဒီ ၁၇၈၄–၁၈၄၀)ကိုကွပ်မျက်*၃ ပြီးလျှင် ထက်မြက်သောစိတ်ထားဖြင့် တိုင်းနိုင်ငံကို ကိုးနှစ်အုပ်ချုပ်ပြီး သက်တော် ၅၉–နှစ်အရွယ်၌ လေရောဂါဝေဒနာကြောင့် သက္ကရာဇ် ၁၂၀၈–ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် ၁၄–ရက် (အေဒီ ၁၇–ရက်၊ နိုဝင်ဘာလ၊ ၁၈၄၆–ခုနှစ်) ညဥ့်နှစ်ချက်တီးကျော်တစ်မောင်းခန့်အချိန် လူ့ပြည်ငြီး၍နတ်ထီးစံတော်မူခဲ့ပါသည်။*၄

သာယာဝတီမင်းနတ်ပြည်စံတော်မူလျှင် သားတော်သီရိပဝရသုဓမ္မ မဟာဓမ္မရာဇာပုဂံမြို့စား မင်းသားသည် 'ပုဂံမင်းတရား'ဟူသောအမည်ဖြင့် ခမည်းတော်သာယာဝတီမင်း၏ထီးနန်းအရိုက် အရာကိုသိမ်းမြန်းတော်မူခဲ့ပါသည်။*၅ ထိုမြန်မာသက္ကရာဇ် ၁၂၀၈–ခုနှစ်တွင် သာယာဝတီမင်း နတ်ပြည်စံ၍ ပုဂံမင်းနန်းတက်လာသည်ကို ရာဇဝင်ဆရာကြီးများက 'အင်္ဂါနေရာ–ပုဂံ မင်းရာဇာ'ဟုလည်းကောင်း၊ သက္ကရာဇ်တို ၂၀၈–ခုနှစ်ကိုအစွဲပြု၍ 'ပုဂံမင်းမှာ–ကျော်နန်းရာ– စံပါခြောက်နှစ်တွင်း'ဟုလည်းကောင်း*၆ သင်္ကေတထားခဲ့ကြ၏။

ဒီပဲယင်းမြို့ *၇

မြန်မာသက္ကရာဇ်–၁၂၀၈ (အေဒီ–၁၈၄၆) ခုနှစ် ပုဂံမင်းနန်းတက်သောအခါ အမရပူရ မင်းနေပြည်တော်မှ အနောက်မြောက်ဘက် မိုင်တစ်ရာကျော်အကွာတွင် မြို့ဝန်မင်းအုပ်ချုပ် ရသော ဒီပဲယင်းမြို့ကလေးသည် ခေတ်ကာလအလျောက် ထင်ရှားတည်ရှိနေပါသည်။

---

*၁ ဘကြီးတော်မင်းကို စစ်ကိုင်းမင်း, မုန်နန်းရှင်ဟုလည်းခေါ်သည်။ ဘကြီးတော်မင်းသည် အေဒီ ၁၈၃၇–ခုနှစ်တွင် ညီတော်သာယာဝတီအား ထီးနန်းလွှဲပေးရပြီး၊ (အေဒီ ၁၅–၁၀–၁၈၄၆)သို့ရောက်မှ နတ်ရွာစံလွန်ပါသည်။ ကုန်းဘောင်ဆက် မဟာရာဇဝင်တော်ကြီး၊ ဒုတိယတွဲ။ လယ်တီမဏ္ဍိုင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၅၄၆)။

*၂ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ ဒုတိယတွဲ။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၅၈၁)။ မဟာမင်းလှမင်းခေါင်ကျော်၏ စကြာမင်းကလေးချောင်း။ ဝိဇယစာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၁၃)။

*၃ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ ဒုတိယတွဲ။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၅၉၈)။

*၄ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ လယ်တီမဏ္ဍိုင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၅၀)။

*၅ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၅၆)။

*၆ ရွှေပြည်ဦးဘတင်၏ စာပေလောက။ ကမ္ဘာ့ခေတ်စာပေတိုက်၊ ရန်ကုန်မြို့။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၅၃)

*၇ ဒီပဲယင်းမြို့ကို 'ဒိပဲရင်း၊ ဒီပရင်း၊ ဒီပယင်း၊ ဒီပဲယင်း၊ ဒိပဲရင်း၊ ဒီပည့်ရင်း၊ တပယင်း'–စသည်ဖြင့် ရေးသားကြပါသည်။ ဒီပဲယင်းမြို့သည် ယခုအခါ စစ်ကိုင်းတိုင်း၊ ရွှေဘိုခရိုင်အတွင်း ရေဦးနှင့်မုံရွာကားလမ်းပေါ်၌တည်ရှိသည်။

ဒီပဲယင်းမြို့သည် လွန်ခဲ့သောနှစ်ပေါင်း ၇၀၀–ကျော် ပုဂံခေတ်ကပင် တည်ရှိခဲ့သော ရှေးဟောင်းမြို့တစ်မြို့ဖြစ်ပြီးလျှင်၊ ပုဂံကျောက်စာတို့၌ 'ထိပေအ်သျင်၊ တိပေအ်သျင်' စသည် ဖြင့် ရေးထိုးထားခဲ့ကြသည်။*၁ ဒီပဲယင်းမြို့တည်သမိုင်းလက်ာ၌ ဒီပဲယင်းမြို့ကို ပုဂံခေတ် အလောင်းစည်သူမင်းကြီး(အေဒီ ၁၁၁၃–၁၁၆၂)တိုင်းခွင်လှည့်လည်တော်မူစဉ်က တည်ထောင် ခဲ့သောမြို့ဖြစ်ကြောင်းဖော်ပြထား၏။ ရှေးမှတ်တမ်းများအရမူ ဒီပဲယင်းမြို့ကို ကတူးလူမျိုးများ တည်ထောင်ခဲ့ကြပြီး ပုဂံခေတ်ကုန် အင်းဝခေတ်ဦးသို့ရောက်မှ ကတူးလူမျိုးများသည် ဒီပဲယင်းမှ မူးမြစ်ဖျား ပင်လယ်ဘူးဘက်သို့ရွှေ့ပြောင်းသွားကြကြောင်းသိရပါသည်။*၂

ဒီပဲယင်းမြို့အမည်တွင်ပုံနှင့်စပ်၍ ဒီပဲယင်းမြို့ဝန်ပိဋကတ်တော်အုပ်မင်းဦးယမ်(အေဒီ ၁၈၁၅–၁၈၉၁)က 'အလောင်းစည်သူမင်းတိုင်းခွင်လှည့်လည်ရာ မြောက်ဘက်အရပ်သို့အရောက် မြို့တည် မည့်အခါ အရှေ့အရပ်ကနတ်တို့ ဆိတ်မြန်မာ*၃ အယောင်ဆောင်၍ တောအရပ်၌ရေသောက် မည့်ဟန် 'ပဲ...ပဲ'ဟုတွန်မြည်ကာလာကြသည်ကိုအစွဲပြု၍ 'ဒီ' သဒ္ဒါ = 'ရေ' ဟော၊ 'ပဲ' သဒ္ဒါ= 'ဆိတ်မြန်မာမြည်သံ' ဟော၊ 'ယင်း' သဒ္ဒါ = 'တော'။ ထိုပုဒ်သုံးခုပေါင်းစပ်၍ 'ဒီ + ပဲ + ယင်း' ဟုသမုတ်ခေါ်ကြောင်း'ရေးသားခဲ့ပါသည်။*၄ လယ်တီဆရာတော်ကြီးကမူ မိမိ၏ဇာတိ ဒီပဲယင်း မြို့သည် လူပညာရှိ၊ ရဟန်းပညာရှိများစသည်ထင်ရှားသောပုဂ္ဂိုလ်ကျော်များ*၅ ထွက်ပေါ်ခြင်း၊ ဒီပဲယင်းမြို့သည် စေတီပုထိုးကျောင်းကန်သာသနိကအဆောက်အအုံများပေါများပြီး သာသနာတော်

---

*၁ စာရင်း ၂၇၀[၁၉] – ရှေးဟောင်းမြန်မာကျောက်စာများ၊ ဒုတိယတွဲ။ ၁၉၈၂–ခုနှစ်။ (စာမျက်နှာ–၉၄)။ စာရင်း ၃၄၉[၃၃]– ရှေးဟောင်းမြန်မာကျောက်စာများ၊ တတိယတွဲ။ ၁၉၈၃–ခုနှစ်။ (စာမျက်နှာ–၉၄)။ စာရင်း ၃၅၁[၁၆] – ယင်း။ ၁၉၈၃–ခုနှစ်။ (စာမျက်နှာ–၉၆)။ စာရင်း ၄၁၇[၁]– ယင်း။ ၁၉၈၃–ခုနှစ်။ (စာမျက်နှာ–၂၀၆)။

*၂ ဒီပဲယင်းမြို့ကိုသာမက ထိုနယ်အတွင်းရှိ မြေတူ၊ ပဥ္စာလငါးရွာ၊ မုဆိုးဘို(ရွှေဘို)၊ မုဆိုးခြုံ၊ စည်ပုတ္တရာ–စသော မြို့ရွာများကိုလည်း ကတူးလူမျိုးတို့တည်သောမြို့ရွာများသာဖြစ်သည်။ ဤအချက်တို့ကို ဒီပဲယင်းမြို့ ရွှေသိမ်တော် ကျောင်းတိုက်ဘုန်းကြီး အရှင်ဣန္ဒြသာမိ၏ ဒီပဲယင်းမြို့တည်သမိုင်းမှတ်တမ်း(လက်ရေးမူ)မှရပါသည်။

*၃ သိုးသတ္တဝါကို ရှေးမြန်မာစကား၌ 'ဆိတ်ကုလား' ဟုခေါ်တွင်ခဲ့ကြသည်။ ယနေ့တွေ့မြင်နေကြသောဆိတ်ကို ထို သိုး(ခေါ်) ဆိတ်ကုလားနှင့် ကွဲပြားခြားနားစေရန် 'ဆိတ်မြန်မာ' ဟုခေါ်တွင်ခဲ့ကြသည်ဟူ၏။ ဦးဝန်၏ တက္ကသိုလ်မြန်မာအဘိဓာန်၊ အပိုင်း–၅။ ၁၉၆၄–ခုနှစ်။ (စာမျက်နှာ–၈၀၇)။

*၄ ပိဋကတ်တော်အုပ်မင်းဦးယမ်၏ အရှင်အဂ္ဂသမာဓိ၏ အတ္ထုပ္ပတ္တိသမိုင်း(ပေမူ)။ တက္ကသိုလ်များစာအုပ်ပြုစုထုတ်ဝေရေး ကော်မတီ၊ ပေပုရပိုက်စာစဉ် (အမှတ်–၄)၊ ၁၉၇၄–ခုနှစ်။ ဝဏ္ဏကျော်ထင်ဦးဘသန်းက ဒီပဲယင်းကို 'တော + ရေ + ဆိတ်– မြို့အဓိပ္ပာယ်ရှိသော ကဒူးဘာသာ' ဟုရေးသားထား၏။ မုံတိုင်ပင်ဆရာတော်၏ သုံးပုံတံချူကျမ်း။ ဟံသာဝတီပုံနှိပ် တိုက်၊ ရန်ကုန်မြို့။ ၁၉၅၉–ခုနှစ်။ (စာမျက်နှာ–ဃ)။ Burma Gagetteer, Shwebo District, Volume A. Page-259 တွင် *ditpetshin* (ဒီပဲယင်း)ဟူသောဝေါဟာရသည် 'ရေ + ဆိတ် + တော' အဓိပ္ပာယ်ရသော ကဒူးဘာသာ သို့မဟုတ် မွန်ဘာသာ၊ အခြား ချင်းဘာသာစသည်ဖြစ်နိုင်သည်' ဟုဖော်ပြထား၏။

*၅ ဒီပဲယင်းနယ်ဇာတိဖြစ်ကြသော ဘုံခန်းပျို့ဆရာအရှင်အဂ္ဂသမာဓိ၊ တထာဂတဥဒါနဒီပနီကျမ်းပြု ဒီပယင်းဆရာတော် သီရိသဒ္ဓမ္မာဘိလင်္ကာရ၊ အရုံကိုဏ်းဆရာတော်အရှင်ဥက္ကာစာရ၊ သုံးပုံတံချူကျမ်းပြု မုံတိုင်ပင်ဆရာတော်အရှင်ဝံသ၊ အတုလဆရာတော်အရှင်ယသ၊ ပကိဏ္ဏကဝိသဇ္ဇနာကျမ်းပြု လုံးတော်ဆရာတော်အရှင်ဂုဏဝါ၊ စပါးတော (မြသိန်းတန် ဆရာတော်)အရှင်ဇိနေ၊ အယူတော်မင်္ဂလာဦးနိုး–စသည့် ရဟန်းပညာရှိ၊ လူပညာရှိပုဂ္ဂိုလ်ကျော်များကိုဆိုလိုပါသည်။

စည်ပင်ပြန့်ပြောမှုရှိခြင်း၊ အခြားမြို့ရွာများနှင့်ကူးသန်းသွားလာရန်လွယ်ကူပြီး စီးပွားဥစ္စာရှာဖွေ၍ ရလွယ်ခြင်းစသည့်ဂုဏ်အရပ်ရပ်တို့ကြောင့် အခြားအရပ်ဒေသ၌နေထိုင်ကြသူတို့အား ဤဒီပဲယင်းမြို့သို့ လာရောက်နေထိုင်စေရန်ဆွဲဆောင်နေသကဲ့သို့ဖြစ်သည်ဟူသောအဓိပ္ပာယ်ဖြင့် ဤအရပ်ကို ပါဠိဘာသာဖြင့် 'ဒီပရဂ်'[*၁] ဟုခေါ်ဆိုကြောင်း ရေးသားဖော်ပြတော်မူခဲ့ပါသည်။ လယ်တီဆရာတော်ကြီး၏အယူအားဖြင့် ပါဠိဝေါဟာရ 'ဒီပရဂ်'မှ 'ဒီပဲယင်း'ဖြစ်လာသည်ဟူ၍ မှတ်ယူနိုင်ပါသည်။

ဘိုးတော်မင်းတရားလက်ထက်(အေဒီ ၁၇၈၂–၁၈၁၉)ကောက်ယူခဲ့သောစစ်တမ်းများအရ မြန်မာမင်းနေပြည်တော်ဖြစ်သော ရတနာသိင်္ဃရွှေဘိုမြို့တော်တွင် အိမ်ခြေပေါင်း ၁၅,၅၀၀၊ အလုံမြို့တွင် ၁၇,၀၀၀၊ ဒီပဲယင်းမြို့တွင် ၁၄,၀၀၀၊ ပြည်မြို့တွင် ၉,၀၀၀၊ ကန္နီနှင့်စလင်းမြို့တွင် ၈,၀၀၀၊ အမြင့်မြို့တွင် ၅,၀၀၀–ဟုအသီးသီးရှိကြရာ၊ ထိုခေတ်က လူနေအိမ်ခြေများပြား၍ အစည်ကားဆုံး ၁၂–မြို့တွင် ဒီပဲယင်းမြို့သည်လည်း တစ်မြို့အပါအဝင်ဖြစ်ခဲ့သည်။[*၂]

ဒီပဲယင်းမြို့သည်ကား 'ခြားသီးသလ္လာ၊ ရွှေ့ရောနှင့်၊ သီတာမူးလယ်' –ဟူသော ပလိပ်စားချင်းဆရာဖွဲ့ဆိုထားသည့်တိုင်းပင်[*၃] အရှေ့ဘက်၌ ရောဝတီ၊ အနောက်ဘက်၌ ချင်းတွင်း သလ္လာ၊ ထိုမြစ်နှစ်သွယ်၏အလယ်၌အကြား မူးမြစ်သည်လည်း ဒီပဲယင်းမြို့နှင့်မနီးမဝေး၌တည်ရှိနေ၏။[*၄] ဒီပဲယင်းမြို့သည် ဤသို့ မြစ်ကြီးနှစ်သွယ်နှင့် အလယ်ကမူးမြစ်ပေါင်းစည်းပါဝင်သော

---

*၁ လယ်တီဆရာတော်ကြီး၏သဂြိုဟ်မဟာဋီကာသစ်ပါဠိ။ ၁၂၈၅–ခုနှစ်။ (စာမျက်နှာ–၄၀၈)၌ 'တတ္ထနဂရေ ဒီပရဂ်မှီတိ ဒီပဝါသီမဟာဇနံ ရဥ္ဇေတီတိ ဒီပရဂ်န္တိ လဒ္ဓနာမေနဂရေ' (ဒီပဝါသီမဟာဇနံ=ကျွန်းနေသူလူများအပေါင်းကို၊ ရဥ္ဇေတိ= တပ်နှစ်သက်စေတတ်၏။ ဣတိ=ထို့ကြောင့်။ ဒီပရဂ်န္တိ =ဒီပရင်းဟူ၍၊ လဒ္ဓနာမေ=ရအပ်သောအရှိသော၊ နဂရေ=မြို့၌။ ဦးကဝိ၏ သဂြိုဟ်မဟာဋီကာသစ်နိသျ၊ ၂။ ၃၉၁) ဟု ရေးသားတော်မူခဲ့ပါသည်။ (ဒီပ + ရဂ် > ဒီပရဂ် > ဒီပရင်း)။ ထို့ပြင် သဂြိုဟ်မဟာဋီကာသစ်အဖွင့် အနုဒီပနီပါဠိ၌လည်း– 'ရဥ္ဇေတီ'တိ ရမေတိ– ခေမသုဘိက္ခတာဒိဂုဏေဟိ အနာဂတေ ဇနေမာပေတိ၊ အာဂတေ အညတ္ထ ဂန္တုံ နဒေတီတိ ဝုတ္တံ ဟောတိ' စသည်ဖြင့်ဖွင့်ဆိုပြထားသည်။ လယ်တီဆရာတော်ကြီး၏ အနုဒီပနီပါဠိ။ ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၂၀–ပြည့်နှစ်။ (စာမျက်နှာ–၃၂၃)။

*၂ ဦးညိုမြ၏ အညာရောက်မွန်မင်းကြီး။ ရွှေဘိုမိမိကြီး၏မင်းလက်ဝါး။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ–၁၇၂)။ ဒီပဲယင်းမြို့သည် မြန်မာမင်းလက်ထက်တော်အခါက အလုံမြို့ဝန်၏လက်အောက်၌ရှိခဲ့ပြီး အင်္ဂလိပ်လက်ထက်သို့ရောက်မှ ရွှေဘိုခရိုင်ဝန်၏လက်အောက်သို့ပြောင်းရွှေ့ကာ ရွှေဘိုခရိုင်တွင် ရေဦး၊ တန့်ဆည်၊ ဒီပဲယင်း ထည့်သွင်းဖွဲ့စည်းခဲ့ပါသည်။ Shwebo District Gazetteer,Volume B. Page- 52 ၌ ၁၉၁၁–ခုနှစ် အင်္ဂလိပ်အုပ်ချုပ်စဉ်အခါက စာရင်းကောက်ယူချက်အရ ဒီပဲယင်းမြို့နယ်သည် ဧရိယာစတုရန်း ၆၁၃–မိုင်ကျယ်ဝန်းပြီး၊ လူဦးရေ ၄၅,၈၅၉–ဦးရှိ၍၊ ရွာပေါင်း ၉၄–ရွာရှိကြောင်းဖော်ပြထားသည်။

*၃ ဤစာသားသည် ဒီပဲယင်းနှင့်တစ်နယ်တည်းဖြစ်သော ရွှေဘိုမြို့၏တည်နေရာကိုပြဆိုခြင်းဖြစ်သည်။ ဦးဖျော်၏ ပလိပ်စားချင်း။ (အပိုဒ်–၄၇)။ ဦးဘေ၏ကဗျတ္တစန္ဒိကာကျမ်း။ မြန်မာ့အလင်းသတင်းစာတိုက်၊ ရန်ကုန်မြို့။ ၁၂၈၈–ခုနှစ်။ (စာမျက်နှာ–၃၂၃)။ ဒီပဲယင်းမြို့၏အကျယ်အဝန်းကို စမ္ဗူဒီပဥဆောင်းကျမ်း၌– 'အရှေ့ကိုလားသော် မူးချောင်းကောက်ကောက်စင်းစင်း၊ တောင်သို့လားသော် ရှမ်းလေးရွာထိ၊ အနောက်ကိုလားသော် ဝန်သိုဒိုင်းစုသားမြေနှင့်အစပ်၊ မြောက်ကိုလားသော် မြေတူးမြို့နယ်နှင့် ကျောခိုင်း–ဟု ဖော်ပြထားသည်။ ဒေါက်တာသန်းထွန်း(တည်း)၏ စမ္ဗူဒီပဥဆောင်းကျမ်း။ မြန်မာ့သမိုင်းအဖွဲ့၊ ရန်ကုန်မြို့။ ၂၀၀၅–ခုနှစ်။ (စာမျက်နှာ–၉၄)။

*၄ မူးမြစ်သည် ဒီပဲယင်းမြို့၏အရှေ့ဘက် ခုနစ်မိုင်အကွာတွင် တည်ရှိသည်။

မူးမြစ်ဝှမ်းဒေသ၌ကျရောက်နေသောကြောင့် စိုက်ပျိုးရေးလုပ်ငန်းကိုအောင်အောင်မြင်မြင်လုပ်ကိုင်နိုင်ခဲ့လေသည်။

ဒီပဲယင်းမြို့တည်ရေးလင်္ကာ၌– 'ဘုရားကိုးဆူ၊ ဂူလည်းကိုးရပ်၊ နတ်ကြီးကိုးပါး၊ တံကားကိုးတန်၊ ကိုးရွာရံ၍၊ ကန်လည်းကိုးသွယ်၊ ကိုးသန်းပယ်နှင့်၊ ကိုးဆယ်ကိုးရွာ၊ စပ်ခါမဝေး၊ ကျေးကိုးကျေးနှင့်၊ နီးဝေးပြန့်လှိုင်'[*၁] ဟု ဒီပဲယင်းမြို့တွင် ဘုရား,ပုထိုး,အင်း,အိုင်,ကန်,မြောင်း,လယ်ယာ–စသည် စည်ကားသိုက်မြိုက်ပုံနှင့် ဒီပယင်းနယ်အတွင်း လယ်မြေပယ်ပေါင်းကိုးသန်းရှိပုံတို့ကိုဖွဲ့ဆိုထားရာ ဒီပဲယင်းမြို့နယ်၏ကြီးကျယ်စည်ကားပုံမှာ အံ့လောက်စရာဖြစ်တော့သည်။ ဒီပဲယင်းနယ်သည် မိုးနည်းရေရှားရပ်ဝန်းအတွင်းကျရောက်စေကာမူ ရေသွင်းစိုက်ပျိုးရေးအောင်မြင်သောဒေသဖြစ်သဖြင့် ကဝိလက္ခဏာသတ်ပုံကျမ်းကြီး၌– 'ဒီပဲရင်းဝယ်၊ ကိုးသန်းပယ်၊ တို့နယ်လေးမျက်နှာ'ဟု စာမော်ကွန်းထိုးခဲ့ခြင်းဖြစ်သည်။[*၂] ဤနေရာ၌ ပယ်[*၃] ကိုးသန်းအယူသည် ရှေးအယူဖြစ်သည်။ ဒီပဲယင်းသည် ရွှေဘိုမြို့တော်မဖြစ်မီက အကြီးဆုံးမြို့ဖြစ်ပြီး၊ ရေဦးနှင့် တန့်ဆည်မြို့တို့သည်ပင် ဒီပဲယင်းနယ်၌ပါဝင်ခဲ့ပြီး လူဦးရေများစွာနေထိုင်ခဲ့ခြင်းကြောင့် ဒီပဲယင်းဒေသ၌ လယ်ကေပယ်ပေါင်းများစွာရှိခဲ့သည်မှာ ယုံမှားဖွယ်မရှိဟုယူဆကြသည်။ အချို့ကလည်း ဒီပဲယင်းမြို့ကိုတည်ထောင်ခဲ့သော ကတူးလူမျိုးများသည် ဗြာဟ္မဏအယူလွှမ်းမိုးမှုကြောင့် မြို့ရွာတည်လျှင် ကိုးဂဏန်းကို များစွာအသုံးပြုသောကြောင့်လည်း ဒီပဲယင်းမြို့တည်လင်္ကာ၌ ကိုးဂဏန်းလွှမ်းမိုးခြင်းဖြစ်နိုင်သည်ဟူသော အယူအဆတစ်ရပ်ရှိပေသေးသည်။[*၄]

စမ္ဘူဒီပဥဆောင်းကျမ်း၌မူ 'တပယင်း(ဒီပဲယင်း)မြို့နယ်အတွင်း လယ်ပယ်ပေါင်း –၇၀၀၀။ ထိုနယ်အတွင်း ကိုးသန်းကျလယ်ကြီးရှိသည်' ဟုဖော်ပြထားရာ၊[*၅] ထို 'ကိုးသန်းကျလယ်'ကို အစွဲပြု၍ 'ဒီပဲယင်းနယ်၊ ကိုးသန်းလယ်'ဟု ရှေးဆရာတို့စာစပ်ခဲ့ခြင်းလည်းဖြစ်ရာသည်။ 'ပယ်ကိုးသန်း' ဟုတ်ဟန်မတူပါ။ စင်စစ်အရပ်ဒေသတို့၏ကြီးကျယ်ပုံကို ဂုဏ်တင်ပြောကြားသောစကား

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၃)။ ပုဂံဝန်ထောက်ဦးတင်၏ ကဗျာဗန္ဓသာရကျမ်း။ လယ်တီမဏ္ဍိုင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၁၀၄)။ မြန်မာစာညွန့်ပေါင်းကျမ်း၊ တတိယတွဲ။ ပြန်ကြားရေးဝန်ကြီးဌာန၊ ရန်ကုန်မြို့။ ၁၉၉၂–ခုနှစ်။ (စာမျက်နှာ–၁၄၇)လည်းရှုပါ။

*၂ ဦးဩ၏ ကဝိလက္ခဏာသတ်ပုံသံပေါက်ကျမ်း။ (အပိုဒ်–၂၂)။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၂–ခုနှစ်။ (စာမျက်နှာ–၄)။

*၃ တစ်ပယ်လျှင် (၁ ဒသမ ၇၇) ဧက။ ဦးသိန်းလှိုင်၏ ခေတ်ဟောင်းမြန်မာ့သမိုင်းသုတေသနအဘိဓာန်။ တက္ကသိုလ်များသမိုင်းသုတေသနဦးစီးဌာန၊ ရန်ကုန်မြို့။ ၂၀၀၀–ပြည့်နှစ်။ (စာမျက်နှာ–၉၆)။ 'ပယ်' ကို ပါဠိဘာသာ၌ 'ကရီသ' ဟုခေါ်ပြီး '၁၁–တင်း ပျိုးကြဲနိုင်လောက်သောအရပ်' ဟုအနက်ပေးသည်။ တိပိဓာန်၊ အတွဲ–၅။ (စာမျက်နှာ–၄၀၃၊ ၄၀၄)။

*၄ ထိုင်းနိုင်ငံ၌ ယခု ဇင်းမယ်ဟုခေါ်တွင်သောအရပ်ကို ရှေးက 'လန်န(Lan Na)'ဟုခေါ်ခဲ့ကြရာ၊ 'လန်န'တွင် လန် = တစ်သန်း + န = လယ်။ 'လန်န=လယ်တစ်သန်းရှိရာဒေသ'ဟုဆိုလိုသည်။ ထို့အတူ လာအို(Lao)ပြည်ထောင်စုသမ္မတနိုင်ငံကိုလည်း ရှေးက လင်းဇင်(Lan Xang)ဟုခေါ်တွင်ခဲ့ကြရာ၊ လင်း(လန်) = တစ်သန်း + ဇင်=ဆင်။ 'လင်း(လန်)ဇင် = ဆင်တစ်သန်းရှိသောဒေသ'ဟုအနက်ရလေသည်။ S. Ongsakul' History of Lan Na. Silkworm Book, Bangkok. 2005. Page-11.

*၅ ဒေါက်တာသန်းထွန်း(တည်း)၏ စမ္ဘူဒီပဥဆောင်းကျမ်း။ ၂၀၀၅–ခုနှစ်။ (စာမျက်နှာ–၉၅)။

များဖြစ်၍ ရှေးလူကြီးတို့က ဒီပဲယင်းနယ်၏ကြီးကျယ်ပုံကိုမှန်းဆနိုင်ရန် 'ပယ်ကိုးသန်း' ဟု ဖွဲ့ဆိုခဲ့ခြင်းလည်းဖြစ်ရာသည်။

ဒီပဲယင်းမြို့အုပ်ချုပ်ရေးနှင့်စပ်၍ အင်းဝမိုးညှင်းသတိုးမင်း(အေဒီ ၁၄၂၆-၁၄၃၉)အဆက် မဟာသီဟသူရနန်းတက်စဉ်အခါက သားတော်နော်ရထာကိုအိမ်ရှေ့နှင်းကာ ဒီပဲယင်းမြို့ကို ကံကျွေးပေးသည်ဟု မဟာရာဇဝင်တို့၌မှတ်တမ်းတင်ထားသည်။ ထိုအချိန်ကစ၍ မြန်မာရာဇဝင် တွင် အိမ်ရှေ့စံတို့အား ဒီပဲယင်းမြို့ကို မြို့စားပေးသောအလေ့ဖြစ်လာခဲ့ပုံရ၏။*၁ အလောင်းမင်း တရားလက်ထက်တော်တွင် အိမ်ရှေ့စံနောင်တော်ကြီးမင်း(အေဒီ ၁၇၆၀-၁၇၆၃)အား ဒီပဲယင်း မြို့ကိုအစားပေးသနားတော်မူခဲ့ရာ၊ နောင်တော်ကြီးမင်းလက်ထက်၌ ဒီပဲယင်းမြို့သည် အထူး ထင်ရှားစည်ကားခဲ့သည်။ နောင်တော်ကြီးမင်းကိုလည်း ရာဇဝင်၌ 'ဒီပဲယင်းမင်း' ဟူ၍ပင်ဖော်ပြ ကြကုန်၏။*၂

သက္ကရာဇ် ၁၁၇၅ (အေဒီ -၁၈၁၃)ခုနှစ် ဘိုးတော်မင်းလက်ထက်၌ စစ်သူကြီးမဟာဗန္ဓုလ သည် နေမျိုးသူရရဲခေါင်-ဘွဲ့ထူးဖြင့် ဒီပဲယင်းဝန်ဖြစ်ခဲ့၏။*၃ ဘကြီးတော်မင်းလက်ထက် (အေဒီ ၁၈၁၉-၁၈၃၇)တွင် နန်းမတော်မယ်နု၏ဝရီးတော်ပိုလ်မှူးငကွန်သည် ဒီပဲယင်းဝန်ဖြစ်ခဲ့၏။ ဘကြီးတော်မင်းနန်းကျပြီး မိဖုရားကြီးနန်းမတော်မယ်နု မင်းဒဏ်သင့်သည့်အခါ ပိုလ်မှူးငကွန်လည်း ဒီပဲယင်းဝန်အဖြစ်မှလျှောကျခဲ့ရ၏။*၄ မြန်မာသက္ကရာဇ် ၁၂၀၈-ခုနှစ်၊ ပုဂံမင်းလက်ထက်သို့ ရောက်သောအခါတွင်ကား ဒီပဲယင်းဝန်မှာ ဦးမှန်းဖြစ်လေသည်။

## ရွှေချက်သိုရာ စိုင်ပြင်ရွာ *၅

ဒီပဲယင်းမြို့နယ်အတွင်း ကျေးရွာပေါင်းများစွာပါရှိရာတွင်*၆ ဒီပဲယင်းမြို့မှ တောင်ဘက် ခုနစ်မိုင်ခန့်အကွာတွင် စိုင်ပြင်ရွာကလေးသည်လည်းအပါအဝင်ဖြစ်လေသည်။ စိုင်ပြင်ရွာကလေး သည် ဒီပဲယင်းမြို့နှင့်ဘုတလင်မြို့တို့အကြား ခရီးထောက်စခန်းချလှည်းနားရာ ရွာငယ်ကလေး ဖြစ်သည်။

---

*၁ မောင်မောင်သိုက်၏ ဒီပဲရင်းမင်း(ဆောင်းပါး)။ ထိပေအံ့သျှင်မှအာဇာနည်များ။ စိုးမိုးမိတ်ဆက်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၈-ခုနှစ်။ (စာမျက်နှာ-၂၈၆)။

*၂ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ ပထမတွဲ။ လယ်တီမဏ္ဍိုင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၇-ခုနှစ်။ (စာမျက်နှာ-၃၂၅)။

*၃ ဦးသိမ်းမောင်၏ မဟာဗန္ဓုလ။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၁၉၉၀-ပြည့်နှစ်။ (စာမျက်နှာ-၁၇)။

*၄ ရွှေပြည်ဦးဘတင်၏ မြန်မာစာလောက။ ၁၉၆၇-ခုနှစ်။ (စာမျက်နှာ-၇၃)။

*၅ စိုင်မြင်၊ စိုင်ပြင်ကြီး-ဟုလည်းရေးသားကြ၏။

*၆ ယခုအခါ ဒီပဲယင်းမြို့နယ်အတွင်း ကျေးရွာအုပ်စု ၅၆-စု၊ ကျေးရွာပေါင်း ၁၉၃-ရွာ ရှိနေပြီဖြစ်သည်။ ပြည်ထဲရေး ဝန်ကြီးဌာန၏ ပြည်နယ်နှင့်တိုင်းများရှိ ခရိုင်၊ မြို့နယ်၊ မြို့နယ်ခွဲ၊ မြို့၊ ရပ်ကွက်၊ ကျေးရွာအုပ်စုနှင့် ကျေးရွာများ-စစ်ကိုင်းတိုင်း။ ၂၀၀၃-ခုနှစ်။ (စာမျက်နှာ-၆၇)။ စိုင်ပြင်ရွာသည် ယခုအခါ စစ်ကိုင်းတိုင်း၊ ရွှေဘိုခရိုင်၊ ဒီပဲယင်းမြို့နယ်တွင်းပါဝင်၍ ဒီပဲယင်း-မုံရွာ ကားလမ်းပေါ်တွင်တည်ရှိသည်။



စစ်ကိုင်းတိုင်း၊ဒီပဲယင်းမြို့နယ်၊စိုင်ပြင်ရွာ

## စိုင်ပြင်ရွာရှိ ရှေးဘုရားပုထိုးစေတီများ



ရွှေဂူစေတီ



ရွှေပေါက်ထောင်စေတီ



သာဒွန်းဦးဘုရား



ကျောင်းမကျောင်းဘုရား



ရွှေဂူဘုရား

စိုင်ပြင်ရွာတည်ပုံနှင့်စပ်၍ 'မြိုင်ဦးရှင်–စိုင်ပြင်တည်' ဟူသောအတိုမှတ်သံပေါက်လင်္ကာအရ သက္ကရာဇ်–၅၁၄ (အေဒီ–၁၁၅၂)ခုနှစ် ပုဂံပြည် အလောင်းစည်သူမင်းလက်ထက်အခါကပင် ဗြာဟ္မဏအနွယ်ပုဏ္ဏားလူမျိုးတို့ စိုင်ပြင်ရွာကိုတည်ခဲ့သည်ဟုအမှတ်အသားရှိသည်။[*၁]

အလောင်းစည်သူမင်းလက်ထက် ပုဂံနန်းတွင်း၌အမှုတော်ထမ်းသောပုဏ္ဏားကြီး မောင်နမတို့သည် ရှေးဖြစ်မည့်အရေးကိုတွက်ချက်ကြည့်ကြရာ ပုဂံထီးနန်း၏စိတ်မအေးဖွယ်ရာနောင်ရေးကို သိမြင်ကြသဖြင့် မင်းကြီးထံခွင့်ပန်၍ပုဂံနန်းတော်မှထွက်ခွာခဲ့ကြသည်။[*၂] ထိုသို့ထွက်လာရာတွင် မင်္ဂလာဆင်တော်ကို ရှေ့ဆုံးကသွားစေပြီး 'မြို့ရွာတည်ရန်သင့်မြတ်သောနေရာသို့ရောက်လျှင် ရပ်တန့်ပါစေ' ဟု အဓိဋ္ဌာန်ပြုခဲ့ကြသည်။ စိုင်ပြင်ရွာဖြစ်မည့်အရပ်သို့ရောက်သောအခါ ရှေ့ဆုံးမှ သွားနေသော မင်္ဂလာဆင်တော်သည် ရုတ်ချည်းရပ်တန့်သွား၏။[*၃] ထိုမင်္ဂလာဆင်တော် ရပ်တန့်၍ နေသောနေရာနှင့် မနီးမဝေးတွင် ရွှေအဆင်းရှိသောစိုင်ကောင်များမြူးတူးနေကြသည်ကို တွေ့မြင်ကြရ၏။ ထိုအခါ မြေကြန်နိမိတ်လက္ခဏာကိုကျွမ်းကျင်စွာဖတ်နိုင်သူပုဏ္ဏားကြီးက ဤနေရာသည် မင်္ဂလာအပေါင်းနှင့်ပြည့်စုံသော နေရာထူးနေရာမြတ်ဖြစ်သည်ဟုအကဲခတ်မိသဖြင့် ထိုနေရာမှာပင် စခန်းချစေကာ မြို့သစ်ရွာသစ်တည်ထောင်ခဲ့သည်–ဟု ပြောစမှတ်ရှိလေသည်။ စိုင်ကောင်[*၄] များမြူးတူးကျက်စားနေသည်ကိုတွေ့မြင်၍ မြို့ရွာတည်ခဲ့သောကြောင့် ဤမြို့ရွာကို 'စိုင်မြင်' ဟု ခေါ်ဆိုကြောင်းနှင့် ကာလကြာမြင့်လာသော် 'စိုင်မြင်' မှသည် 'စိုင်ပြင်' ဟူ၍ ခေါ်တွင်ခဲ့ကြောင်း အမှတ်အသားရှိလေသည်။[*၅]

---

[*၁] ဒီပဲယင်းနယ်အတွင်း အချို့သောမြို့ရွာတို့ကို ဗြာဟ္မဏလူမျိုးများတည်ကြကြောင်း အထောက်အထားများတွေ့ရသည်။ ဥပမာ–မြေတူမြို့၊ ခင်သာမြို့–စသည်။ မောင်ကျော်ရှင်း၏ မြေတူမြို့။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၂၀၀၃–ခုနှစ်။ (စာမျက်နှာ–၅)။

[*၂] စိုင်ပြင်ရွာ၊ ကျောင်းမတိုက်ဆရာတော်ဦးဓမ္မပါလ၏ စိုင်ပြင်ရွာသမိုင်းမှတ်တမ်း(လက်ရေးမူ)တွင် 'စိုင်ပြင်ရွာတည် ပုဏ္ဏားကြီး၏အမည်ကို 'ဓာဂရုပုဏ္ဏား' ဟုရေးသားထားပြီး၊ မုံရွာမြို့ ရတနာပုံရပ် ဆရာဦးစိုးဂေါင်၏ စိုင်ပြင်ရွာသမိုင်း (လက်ရေး)မှတ်စုတွင် 'ပေါက္ခရသာတိပုဏ္ဏားကြီး' ဟု ရေးသားထားပါသည်။

[*၃] မင်္ဂလာဆင်တော်သည် စိုင်ပြင်ရွာ၏အနောက်ဘက်မန်ကျည်းပင်ကြီးအနီး၌ရပ်ခဲ့ပြီး ယခုအခါထိုနေရာကို 'ဆင်ရပ်မန်ကျည်း' ဟု ခေါ်တွင်ကြပါသည်။

[*၄] စိုင်ကို ဦးဝန်၏တက္ကသိုလ်မြန်မာအဘိဓာန်၊ အပိုင်း–၄။ ၁၉၆၃–ခုနှစ်။ (စာမျက်နှာ–၆၁၅)တွင် 'နွားနှင့်အလွန်တူသော ခြေလေးဖက်ဖြူသော တိရစ္ဆာန်၊ တောနွား' ဟုပြ၏။ ရွှေဥမင်ဆရာတော်က 'မိဂမာတုကော=စိုင် (အောက်မား မည်သော သားလည်းပေး)။ ရောဟိတမိဂေါ=သမင်ပါး' ဟု အနက်ပေးတော်မူပါသည်။ ရွှေဥမင်ဆရာတော်၏ ဝိနည်းမဟာဝါ အဋ္ဌကထာနိဿယ။ ဇမ္ဗူမိတ်ဆွေပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၇၅–ခုနှစ်။ (စာမျက်နှာ–၃၃၇)။ မင်းပူးဦးဩဘာသက 'ဂေါဏသိရ=တောနွား(စိုင်လည်းဟူ၏)' ဟု ပြဆိုထားပါသည်။ မင်းပူးဦးဩဘာသ၏ ဝေဿန္တရာဇာတ်ဝတ္ထု။ ဟံသာဝတီ ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၇၃–ခုနှစ်။ (စာမျက်နှာ–၁၀၄)။

[*၅] ရှေးရေးစိုင်ပြင်ရွာတည်မှတ်တမ်းတွင် ပုဏ္ဏားကြီးမောင်နမတို့သည် မြို့ရွာတည်ရန်အချိန်ကျရောက်သောအခါ ကောင်းကင် နက္ခတ်ကိုမော်ကြည့်လျှင် အလွန်အရောင်တောက်ပသော စိုင်ဟာရာ (ရောဟိတခေါ် စိုင်ရှူးကြယ်)ကို မြင်သောကြောင့် ထိုရွာ၏အမည်ကို 'စိုင်မြင်' ဟုခေါ်တွင်ကြောင်းဖော်ပြထားသည်။ အခြားမှတ်တမ်း၌ ရွာတည်ရန် စိုင်နက္ခတ်ထွန်းပေါ်စဉ် ပန္နက်ရိုက်ရာ၊ ပန္နက်ရိုက်ပြီးသောအချိန်တွင် စိုင်နက္ခတ်ဝင်သွား၍ 'စိုင်ဝင်' ဟုလည်းခေါ်တွင်ကြောင်း ဖော်ပြထားပြန်သည်။

လယ်တီဆရာတော်ကြီးကမူ ဤသို့ရေးစဉ်လာပြောကြသော စိုင်ကောင်များမြင်တွေ့၍ စိုင်မြင်၊ ထိုမှ စိုင်ပြင်ရွာဟု ရွာအမည်ဖြစ်ပုံဗျုပ္ပတ်ကိုအခြေခံ၍ ဤရွာအမည်နှင့်စပ်၍ 'စိုင်, သမင်တို့၏နေရာမြေအပြင်၌ ရွာတည်သဖြင့် စိုင်ပြင်ရွာဟုခေါ်ကြောင်း သဂြိုဟ်မဟာဋီကာ သစ်ပါဌ်၌– 'ဂါမေ စိုင်ပြင်တိနာမကေတိ ရောဟိတမိဂါနံ နိဝါသဘူမိတလေ ပတိဋ္ဌိတတ္တာ ဧဝံ နာမကေ မဟာဂါမေ' (ရောဟိတမိဂါနံ=စိုင်,သမင်တို့၏။ နိဝါသဘူမိတလေ=နေရာမြေအပြင်၌။ ပတိဋ္ဌိတတ္တာ=တည်ထောင်အပ်သည်အဖြစ်ကြောင့်။ ဧဝံ နာမကေ=ဤသို့ စိုင်ပြင်အမည်ရှိသော၊ မဟာဂါမေ=ရွာကြီး)ဟု အနက်ဖွင့်တော်မူခဲ့ပါသည်။*[၁] လယ်တီဆရာတော်ကြီး၏ အနုဒီပနီပါဌ်၌တွင်မူကား–'စိုင်'အမည်ရှိသောသတ္တဝါနှင့်စပ်၍ 'ရောဟိတ မိဂ'ဟု ပါဠိဝေါဟာရဖြင့်ပြဆိုပြီး၊ သုဝဏ္ဏဝဏ္ဏမိဂါ (=ရွှေအဆင်းရှိသောသားသမင်)ဟု ဖွင့်ဆိုတော်မူခဲ့သည်။*[၂]

ဤသို့ ပုဏ္ဏားကြီးမောင်နှမတို့ မြို့ရွာတည်ထောင်၍နေထိုင်ကြသည်ကို အလောင်းစည်သူမင်းကြီးကြားသိသောအခါ ပုဏ္ဏားကြီးမောင်နှမထံသို့ ရွှေငွေရတနာနှင့်အစာရိက္ခာများပေးပို့ချီးမြှောက်တော်မူခဲ့၏။ ပုဏ္ဏားကြီးမောင်နှမလည်း မင်းကြီးချီးမြှောက်ပေးပို့သောရွှေတို့မှ ရွှေအချို့ကိုကြက်ဥပုံသဏ္ဌာန် ရွှေဥကလေးများပြုလုပ်ဌာပနာပြီး ဘုရားတစ်ဆူတည်ထားခဲ့သည်။ ထိုဘုရားကို 'ရွှေကြက်ဥဂူဘုရား'ဟုဘွဲ့တော်ထားခဲ့ရာ၊ နောင်အခါ 'ရွှေဂူဘုရား'ဟုတွင်ခဲ့သည်။*[၃]

နှမဖြစ်သူ ပုဏ္ဏေးမကလည်း မင်းကြီးချီးမြှောက်သောရွှေတို့မှ ရွှေပန်းပေါက်ပေါက်တစ်ထောင်ပြုလုပ်ဌာပနာ၍ ဘုရားတစ်ဆူတည်ပြန်လေရာ၊ ထိုဘုရားကို 'ရွှေပေါက်တစ်ထောင်ဘုရား'ဟုဘွဲ့တော်ထားခဲ့ရာ နောင်အခါ 'ရွှေပေါက်ထောင်ဘုရား'ဟုတွင်ခဲ့သည်။*[၄]

ထို့ပြင် စိုင်ပြင်ရွာလယ်တွင် ပုဏ္ဏားကြီးမောင်နှမတို့မှဆင်းသက်လာသော အဆက်အနွယ်များ တည်ထားကိုးကွယ်ခဲ့သည်ဟု အမှတ်အသားရှိသော ဆင်းတုတော်တစ်ဆူနှင့် တဝဂူဘုရားကလေးတစ်ဆူလည်း တည်ရှိသည်။

စင်စစ် ဤစိုင်ပြင်ရွာ၌ နေထိုင်ကြသူများသည်ကား စိတ်သဘောဖြူဖြောင့် သဒ္ဓါ,သတိ–စသည့်သူတော်ကောင်းတရားဥစ္စာခုနစ်ဖြာတို့နှင့်ပြည့်စုံ၍ အများစုမှာဥယျာဉ်ခြံမြေတောင်ယာလယ်လုပ်နှင့် အချို့ကုန်သည်ရောင်းဝယ်လုပ်ကိုင်ကြသော ဗုဒ္ဓဘာသာဝင်လူရိုးလူကောင်းကြီးများသာဖြစ်ကြသည်။

---

*[၁] လယ်တီဆရာတော်ကြီး၏ သဂြိုဟ်မဟာဋီကာသစ်ပါဌ်။ ၁၂၆၉–ခုနှစ်။ (စာမျက်နှာ–၄၀၈)။ ဦးကဝိ၏ သဂြိုဟ်မဟာဋီကာသစ်နိသျ၊ ဒုတိယတွဲ။ ၁၈၉၁–ခုနှစ်။ (စာမျက်နှာ–၃၉၂)။

*[၂] လယ်တီဆရာတော်ကြီး၏ အနုဒီပနီပါဌ်။ ၁၉၂၀–ပြည့်နှစ်။ (စာမျက်နှာ–၂၃၂)။

*[၃] ရွှေဂူဘုရားအတွင်းမှ ရှေးဖြာဟ္မဏအနွယ်များပြုလုပ်လေ့ရှိသော 'ဘုရားမဟုတ်, ပုဏ္ဏားရုပ်, ဒုကင့်စမွယ်တင်' ပုံစံအရုပ်များလည်းတွေ့ရသည်။ ရွှေဂူဘုရားသည် စိုင်ပြင်ရွာ ကျောင်းမတိုက်အနီး၌တည်ရှိသည်။

*[၄] ရွှေပေါက်ထောင်ဘုရားသည် မြင်ထင်ကျောင်းတိုက်အဝ သပိတ်ဆေးကန်ခေါ် ရေကန်အနီး၌တည်ရှိသည်။ ရွှေပေါက်ထောင်ဘုရားသည် ပွဲတော်ရဘုရားဖြစ်ပြီး နှစ်စဉ်တန်ဆောင်မုန်းလပြည့်ကျော် ၃–ရက်သည် ဘုရားပွဲတော်ရက်ဖြစ်၏။

### ကတိုးရပ်

စိုင်ပြင်ရွာကို ပုဏ္ဏားကြီးမောင်နှမတည်ဦးစအခါက မောင်တစ်ရွာ၊ နှမတစ်ရွာ (တနည်း) စိုင်ပြင်တောင်ရွာနှင့် စိုင်ပြင်မြောက်ရွာဟူ၍ နှစ်ရွာတည်ထားခဲ့သည်။ ၁၂၀၈–ခုနှစ် ပုဂံမင်း လက်ထက်သို့ရောက်သောအခါ စိုင်ပြင်ရွာတွင် စိုင်ပြင်တောင်ရွာ၊ စိုင်ပြင်မြောက်ရွာသာမက ရွှေဒါးကန်၊ ကျောက်ဖျာ၊ သရက်ခေါင်း၊ တောလည်၊ ဘုတ်မ စသောရပ်ကွက်အသစ်များပါ တိုးတက်ဖြစ်ပေါ်လျက်ရှိခဲ့သည်။*၁ ထို့ပြင် စိုင်ပြင်ရွာလယ်တွင်စီးနေသော ဘုတ်မချောင်းကလေး၏ အနီး၌ ကတိုးရပ်အမည်ရှိသောရပ်ကွက်သစ်ကလေးတစ်ခုလည်းပေါ်ပေါက်လာခဲ့ပြန်သည်။

ကတိုးရပ်သည် စိုင်ပြင်ရွာတောင်နှင့်မြောက်အကြား ကုန်းမြင့်ထက်တည်ရှိလေသည်။*၂ ဤနေရာတွင် ကတိုးကောင်များ(နံ့သာအိတ်ပါသော ဒရယ်ကောင်များ)ကျက်စားသွားလာသော နေရာဖြစ်သဖြင့် ထိုကုန်းမြေကလေးကို 'ကတိုးရပ်' ဟုခေါ်တွင်ခဲ့ကြ၏။*၃ ကတိုးရပ်ဖြစ်လာသော ထိုနေရာသည် စိုင်ပြင်ရွာတည်စဉ်အချိန်က မင်္ဂလာဆင်တော် ရပ်တန့်ခဲ့သောနေရာနှင့် မဝေးလှဘဲ ဘုရားပုထိုးကျောင်းကန်များစွာတို့ ဝန်းရံလျက်တည်ရှိနေသောနေရာလည်းဖြစ်ပါပေသည်။*၄

### ဦးထွန်းသာနှင့် ဒေါ်ကျုံး*၅

စိုင်ပြင်ရွာဇာတိ ရတနာသုံးစုံ၌ကြည်ညိုမြတ်နိုး အားကိုးတစ်ခု အလေးပြု၍နေလေ့ရှိသော ရတနတ္တယမာမကရိုးရာလယ်သမားကြီးဖြစ်သော ဦးထွန်းသာ–ဒေါ်ကျုံးတို့သည် မူလက စိုင်ပြင် တောင်ပိုင်း၌နေထိုင်ခဲ့ကြပြီး ကတိုးရပ်ဖြစ်လာမည့်ကုန်းမြေသို့ လွန်ခဲ့သောတစ်နှစ်ခန့်ကမှ ပြောင်းရွှေ့လာကြခြင်းဖြစ်သည်။

ဦးထွန်းသာ၏ဘိုးဘွားအနွယ်အဆက်တို့ကို စိုင်ပြင်ရွာကိုတည်ထောင်ခဲ့သည့် ပုဏ္ဏားကြီး၏ အနွယ်အဆက်ဟုပြောကြ၏။ ဦးထွန်းသာ၏မိခင်မှာ မယ်ကတူး၊ ထိုမယ်ကတူး၏မိခင်မှာ

---

*၁ စိုင်ပြင်ရွာတည်စ ရှေးအခါက စိုင်ပြင်ရွာအတွင်း ဆင်ရပ်၊ ပုဂံရပ်နှင့် ကတိုးရပ်–ဟူ၍ သုံးရပ်ကွက်သာရှိကြောင်း အမှတ်အသားရှိသည်။ ယခုအခါ စိုင်ပြင်ကျေးရွာအုပ်စုတွင် 'စိုင်ပြင်၊ စိုင်ပြင်(မြောက်)၊ စိုင်ပြင်(တောင်)၊ သရက်ခေါင်း၊ ရွှေဒါးကန်၊ ကျောက် ဖျာ၊ တောလည်၊ ငွေးပင်ကုန်း–စသည့်ရွာများပါရှိလေသည်။ ပြည်ထဲရေးဝန်ကြီးဌာန၏ စစ်ကိုင်းတိုင်း။ ၂၀၀၃–ခုနှစ်။ (စာမျက်နှာ–၆၃)။

*၂ ညိုညိုစိုး၏ လယ်တီဆရာတော်၏ဘဝနှင့်စာပေ။ ရန်ကုန်ဝိဇ္ဇာနှင့်သိပ္ပံတက္ကသိုလ်၊ မြန်မာစာဌာနသို့ ၁၉၈၁–ခုနှစ်တွင် တင်သွင်းသော မဟာဝိဇ္ဇာဘွဲ့ယူကျမ်း။ (လက်နှိပ်စက်မူ)။ (စာမျက်နှာ–၁)၌ လယ်တီဆရာတော်၏ရွှေချက်သိုရာဌာနသည် စိုင်ပြင်မြောက်ရွာ ကတိုးရပ်ဖြစ်ကြောင်း ဖော်ပြထား၏။

*၃ စိုင်ပြင်ရွာ ကျောင်းမကျောင်းဘုန်းကြီးဦးဓမ္မပါလ၏ စိုင်ပြင်ရွာသမိုင်း(လက်ရေးမူ)တွင် 'ဘုတ်မချောင်းကိုဖြတ်ရန် ကတို့ဆိပ်ရှိသောအခြမ်း(ဝါ)အရပ်ဖြစ်၍ ကတို့ရပ်' ဟုခေါ်ကြောင်း ဖော်ပြထားသည်။

*၄ လယ်တီဦးကောဝိဒ (ပုပ္ပါးဦးကျော်ရင်)၏ လယ်တီထေရုပ္ပတ္တိကထာ(လက်ရေးမူ)၌ 'လယ်တီဆရာတော်ကြီးရွှေချက်သိုရာ အရပ်ကို ကတိုးရပ်' ဟုခေါ်တွင်ကြောင်းဖော်ပြထားသည်။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၂)တွင် 'ကတိုးရပ်သည် အိမ်ခြေ ၁၂–အိမ်ရှိပြီး စိုင်ပြင်ရွာကိုဖြတ်စီးနေသည့်ချောင်းကို မျက်နှာမူထားကြောင်း' ဖော်ပြထားသည်။

*၅ ဒေါ်ကြုံး–ဟုလည်းရေးသားကြသည်။

ဒေါ်နှင်းရဖြစ်သည်ဟူ၍လည်းအမှတ်အသားရှိသည်။ ဦးထွန်းသာတို့မိဘဘိုးဘွားအစဉ်အဆက်မှ စ၍ ကွယ်လွန်လျှင်မြှုပ်နှံသဂြိုဟ်ရန်အတွက် သီးသန့်ပြုလုပ်ထားသောသုသာန်ရှိခြင်း၊ ပုဏ္ဏားဘုရား ခေါ် တဝဂ္ဂုဘုရားကိုအလေးအမြတ်ကိုးကွယ်ကြခြင်း၊ မိမိတို့၏အနွယ်မဟုတ်သူ တို့နှင့်မရောယှက်ဘဲ သီးသန့်နေထိုင်ခဲ့ခြင်းတို့ကြောင့် ဦးထွန်းသာတို့ကို ဗြာဟ္မဏပုဏ္ဏားနွယ်မကင်းဟု ပြောဆိုကြခြင်းဖြစ်လေသည်။

ဦးထွန်းသာသည် ကတိုးရပ်ကုန်းမြေမြင့်တစ်နေရာ၌ ထူးထူးခြားခြားပေါက်နေသော မန်ကျည်းပင်ကြီးတစ်ပင်အနီးတွင် မိမိတို့မိသားစုနေထိုင်ရန် အိမ်ကလေးတစ်ဆောင်ဆောက်လုပ်ခဲ့၏။ ထိုအိမ်ကလေး၏ဘေးတွင် ဘုတ်မချောင်းစီးဆင်းနေပြီး မလှမ်းမကမ်း၌ ရွှေဂူဘုရားတည်ရှိနေသည်။ ဦးထွန်းသာတို့ ကတိုးရပ်သို့ပြောင်းရွှေ့လာပြီးနောက် ကျန်ဆွေမျိုးအများပင် လိုက်ပါပြောင်းရွှေ့လာကြသောကြောင့် ကတိုးရပ်သည် ဦးထွန်းသာတို့ဆွေမျိုးသားချင်းများ စုဝေးနေထိုင်သော သီးသန့်ရပ်ကွက်ကလေးသဖွယ်ဖြစ်လာပြန်သည်။ စင်စစ် ဦးထွန်းသာမှာ မိမိလယ်လုပ်နေသော လယ်တောနှင့်ကတိုးရပ်မှာ မဝေးကွာလှသောကြောင့် သွားလာရေး အဆင်ပြေသည့် ကတိုးရပ်သို့ ပြောင်းရွှေ့လာခဲ့ခြင်းသာဖြစ်သည်။

ထူးခြားသောပဋိသန္ဓေ

စိုင်ပြင်ရွာကတိုးရပ်ကွက်၌ ဦးထွန်းသာတို့မိသားစုနေထိုင်၍ ရက်လအတန်ကြာသော် ဒေါ်ကျုံး၌ ထူးခြားသောပဋိသန္ဓေကိုရင်ဝယ်လွယ်မိလေသည်။ *၁ 'ထူးခြားသောပဋိသန္ဓေ'–ဟု ဆိုရခြင်းမှာ ဒေါ်ကျုံး၌ပဋိသန္ဓေတည်ပြီးစအချိန် တစ်ညဥ့်သောအခါ အိပ်မက်ထူးတစ်ခုမြင်မက်သောကြောင့်ဖြစ်သည်။ အိပ်မက်တွင် ဒေါ်ကျုံးသည် 'ကောင်းကင်ထက်သို့ပျံတက်သွားသည်'ဟု မြင်မက်ခြင်းပင်ဖြစ်သည်။

နံနက်မိုးသောက်လျှင် ဒေါ်ကျုံးက မိမိ၏အိပ်မက်ကို ခင်ပွန်းသည်ဦးထွန်းသာအားပြောပြသောအခါ အိပ်မက်မှာထူးခြားလှသည်ဖြစ်၍ စိုင်ပြင်ရွာနှင့် ရှေးအခေါ်တစ်တိုင် (ခေတ် ၂–မိုင်)ခန့်အကွာ၌ရှိသော ဆယ်ကြီးရွာ*၂ နေ ဗေဒင်ဆရာကြီးဦးကျော်လှထံသွားရောက်၍ ဒေါ်ကျုံး၏ အိပ်မက်အကြောင်းကို မေးမြန်းကြသည်။*၃ ဆရာကြီးဦးကျော်လှက ဒေါ်ကျုံး၏အိပ်မက်ကို သေချာစွာနားထောင်ပြီး 'ဘုန်းသမ္ဘာကြီးမားဂုဏ်သတင်းအလွန်ကျော်ကြားသည့် သားကောင်းရတနာကိုဖွားမြင်လိမ့်မည်၊ ဤကိုယ်ဝန်ကို စကြာမင်းလောင်း၏ကိုယ်ဝန်ကိုစောင့်ရှောက်သကဲ့သို့

*၁ ဦးထွန်းသာ–ဒေါ်ကျုံးတို့တွင် လယ်တီဆရာတော်ကြီးလောင်းလျာ သတို့သားမဖွားမီ သားကြီးတစ်ဦးဖွားမြင်ခဲ့ပြီး ငယ်စဉ်က ကွယ်လွန်ခဲ့ကြောင်းကို လယ်တီထေရုပ္ပ[illegible]အချို့တို့၌ရေးသားကြသော်လည်း ထိုကလေးကွယ်လွန်သည့် အရွယ်နှင့်အချိန်ကို အတိအကျဖော်ပြထားခြင်း မရှိကြပေ။ အချို့သောလယ်တီထေရုပ္ပတ္တိတို့၌မူ ထိုအကြီးဆုံးသား အကြောင်းကို မဖော်ပြဘဲ လယ်တီဆရာတော်ဘုရားကြီးကိုသာ သားကြီးအဖြစ်လည်း ရေးသားကြပါသည်။

*၂ ဆယ်ကြီးရွာသည် စိုင်ပြင်အနောက်ဘက် ၂–မိုင်ခန့်အကွာ မီးရထားလမ်းဘေးတွင် တည်ရှိသည်။

*၃ စိုင်ပြင်ရွာကျောင်းမဘုန်းကြီးဦးဓမ္မပါလ၏ စိုင်ပြင်ရွာသမိုင်း(လက်ရေးမူ)၌ 'ရဲထွတ်ရွာ ဆရာတော်ဦးဂန္ဓမာထံ အမေးသွားသည်'ဟု ဖော်ပြထား၏။

ကောင်းစွာစောင့်ရှောက်ပါ။ ဖွားမြင်ပြီးလျှင်လည်း ငါ့ထံသို့အကြောင်းကြား။ ငါနာမည်ပေးမည်'ဟု မှာကြားလိုက်၏။*၁

မယ်တော်ကြီးဒေါ်ကျုံး ပဋိသန္ဓေရင့်လာသောအခါ ခမည်းတော်ဦးထွန်းသာက မိမိမှာ လယ်အလုပ်တစ်ဖက်နှင့် အချိန်ပြည့်မစောင့်ရှောက်နိုင်ဟုထင်မြင်မိသည့်အတိုင်း ဇနီးသည်ကို 'ဆွေမျိုးမိတ်သင်္ဂဟပြည့်စုံသည့် စိုင်ပြင်ရွာအတွင်းသို့ ခေတ္တပြန်၍နေကြပါစို့'ဟုပြောလေသည်။ ဒေါ်ကျုံးကလည်း 'မိမိမှာ ဤကိုယ်ဝန်ကိုလွယ်မိသည့်အချိန်မှစ၍ လူစည်ကားသောရွာအတွင်း၌ နေလိုသောစိတ်မရှိဘဲ ရွာ၏အပြင် လူသူကင်းဆိတ်တောတောင်ရိပ်နှင့်ပြည့်စုံသော ဤကတိုးရပ်ကလေးမှာပင်နေလိုကြောင်း၊ အထူးသဖြင့် တောရိပ်တောင်ရိပ်ခိုလှုံကာ အေးအေးချမ်းချမ်း နေလိုသောစိတ်များစွာဖြစ်ပေါ်၍နေကြောင်း'ပြန်ပြောလေသည်။ ထို့ပြင် ဒေါ်ကျုံးသည် ဤကိုယ်ဝန် လွယ်မိသည့်နေ့မှစ၍ ဘုရားအကြိမ်ကြိမ်ရှိခိုးပါသော်လည်း ရှိခိုး၍အားမရ၊ ရှိခိုးပြီးရင်းရှိခိုးချင်ရင်း ဘုရားအာရုံကိုယ်၌ထုံ၍သာနေလိုသောဆန္ဒများလည်း ဖြစ်ပေါ်လာခဲ့လေသည်။

**အတိတ်နိမိတ်ဆန်းများ**

သို့နှင့် သက္ကရာဇ် ၁၂၀၈–ခုနှစ်၊ နတ်တော်လ (အေဒီ ၁၈၄၆၊ ခုနှစ်၊ နိုဝင်ဘာလ)တွင် ဒေါ်ကျုံး၏ကိုယ်ဝန်မှာ မီးဖွားရန်အချိန်သို့ရောက်ခဲ့လေပြီ။ နတ်တော်လဆန်း ၁၃–ရက် (အေဒီ ၁၊ ဒီဇင်ဘာလ၊ ၁၈၄၆–ခုနှစ်) ညနေဆည်းဆာနေဝင်ခါနီးအချိန်၌ စိုင်ပြင်ရွာအထက် ကောင်းကင်ပြင်တွင် စို့တကိုင်းခေါ် ရောင်စုံသက်တံ့ကြီးတစ်ခု အဆန်းတကြယ်ပေါ်ထွက်လာသည်။ ထိုရောင်စုံသက်တံ့ကြီးသည် ဦးထွန်းသာ၏အိမ်ဥပစာအတွင်းမှ အထက်မိုးကောင်းကင်ဆီသို့တက်သွားခြင်းဖြစ်သည်ဟု စိုင်ပြင်ရွာလုံးကျွတ် လူစုလူဝေးကြီး အထူးအဆန်းအဖြစ်ကြည့်ရှုနေကြလေသည်။ သက်တံ့ကြီးသည် ထက်ကောင်းကင်၌အချိန်အတော်ကြာကြာတည်ရှိနေပြီး တဖြည်းဖြည်းနှင့်မှေးမှိန်ပျောက်ကွယ်သွားခဲ့သည်။ သက်တံ့ကြီးပျောက်ကွယ်ခါနီးတွင် ဦးထွန်းသာ၏အိမ်ရှေ့မန်ကျည်းပင်ကြီးအနီး၌ထောင်ထားသော ဝါးလုံးများအကြားမှ မိုးချုန်းသံလို ဝုန်းခနဲအသံကြီးတစ်သံမြည်ဟည်း၍ မီးလုံးကြီးတစ်ခု ဦးထွန်းသာ၏အိမ်အတွင်းသို့ဝင်သွားကာ အိမ်ကိုတစ်ပတ်ပတ်ပြီးမှ ထက်ကောင်းကင်သို့ပျံတက်သွားလေသည်။ ရွာသားအချို့က ဦးထွန်းသာ၏အိမ်တွင်း၌ မီးလုံးကြီးထိန်ထိန်လင်းနေသည်ကို အိမ်ခေါင်မိုးမီးစွဲလောင်သည်ထင်ပြီး မီးငြိမ်းရန် အပြေးအလွှားလာကြသူများပင်ရှိကြောင်း ပြောစမှတ်တွင်ခဲ့၏။*၂

---

*၁ ဆရာစိုး၏ လယ်တီဆရာတော်ဘုရားကြီး၏အတ္ထုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ–၄)။ ဟသ်ာတမြို့၊ စတုတ္ထမြစ်ကွေ့ ဆရာတော် ဦးပညာဝံသ၏ လယ်တီမဟာထေရသ်ခေပဥပ္ပတ္တိမဉ္ဇူရီ၌ ရဲထွတ်ရွာနေ ဆရာကြီးတစ်ဦးအားပြောကြားရာ 'ဘုန်းကံကြီးမားသော သားကောင်းရတနာဖွားမြင်လိမ့်မည်၊ ၎င်းအခါ ငါ့အားအကြောင်းကြားလော့၊ ငါနာမည်မှည့်ပေးမည်'ဟု ဆရာကြီးကဆိုလေ၏'ဟူ၍ဖော်ပြထား၏။ လယ်တီဆရာတော်ကြီး၏ သဂြိုဟ်မဟာဋီကာသစ်ပါဠိ။ ၁၂၉၂–ခုနှစ်။ (စာမျက်နှာ–၄)။

*၂ လယ်တီတေဇာဝုဓမောင်တင်ဦး (လယ်တီပဏ္ဍိတဦးမောင်ကြီး၏သား)၏ လယ်တီဆရာတော်ဘုရားကြီး မီးရှူးသန့်စင် ဖွားမြင်တော်မူဆဲအခါ ဖြစ်ပေါ်လာသောမင်္ဂလာနိမိတ်ထူးကြီး(ဆောင်းပါး)။ ဗုဒ္ဓဓမ္မလောကစာစောင်။ (၂၀–၁၂–၅၇)၊ အတွဲ–၃၊ အမှတ်–၂၁။ (စာမျက်နှာ–၉)။

ထိုနတ်တော်လဆန်း ၁၃–ရက်နေ့ညနေတွင် ဦးထွန်းသာမှာ တောလယ်ရွာ[*၁] သို့ ခရီးလွန်နေသောကြောင့် ဒေါ်ကျုံးတစ်ဦးတည်းသာ အိမ်၌ရှိနေ၏။ ထိုနေ့ည အထက်ကောင်းကင်ယံတွင် လဆန်း ၁၃–ရက်ညဖြစ်သည်နှင့်အညီ ထွန်းပရွှန်းလက်နေသောလမင်းကြီးကိုမြင်တွေ့နေရ၏။ သို့ပါသော် ကောင်းကင်တပြင်လုံးကြည်လင်နေရာမှ ရုတ်ချည်းဆိုသလို မည်းညိုမှောင်မည်းလာကာ မိုးကြီးရွာချပါတော့သည်။

ဒီပဲယင်းနယ် စိုင်ပြင်ဒေသသည် မိုးနည်းသောဒေသဖြစ်၍ ယခုလိုဆောင်းတွင်းအခါ၌ မိုးကြီးရွာဖို့မဆိုထားဘိ မိုးတိမ်တိုက်ပင်အုံ့ဆိုင်းဖို့အကြောင်းမရှိခဲ့ပေ။ သို့လျှင် ရုတ်ခနဲမိုးကြီးရွာချလိုက်ပုံကား 'ဆော်စည်မရွမ်း၊ ရွာစတမ်းကို၊ ဆင်လုမ်းရာတိမ်'ဟု မြေ၌ထင်သော ဆင်ခြေရာပင် တိမ်ကောပပျောက်သွားအောင်ရွာနိုင်သောမိုးဖြစ်၍ ဆင်ရာတိမ်မိုးရွာချခြင်းဟု အညာဒေသ၌ခေါ်ဆိုကြသည်။ ဤသို့သော ဆင်ရာတိမ်မိုးမျိုးသည် အခါမဟုတ်သော်လည်း နတ်တော်လ၌ရွာလေ့ရှိသည်။[*၂] အခါမဟုတ်ပါဘဲနှင့် မိုးကြီးရုတ်ခနဲရွာချလိုက်ခြင်းသည် ထိုညနေ၏ ထူးခြားသောအချက်တစ်ရပ်ဖြစ်လေသည်။

ဒေါ်ကျုံးသည် ဦးထွန်းသာပြန်အလာကိုစောင့်မျှော်ရင်း အိမ်ဘုရားစင်ရှေ့တွင် ရေချမ်းကပ် ပန်းကပ်ဘုရားဝတ်ပြုနေစဉ် မိမိလွယ်ထားသောပဋိသန္ဓေသည် မွေးဖွားတော့မည့်ဟန်အမူများ ပြလာ၍ အိမ်နီးဝန်းကျင်ရှိဆွေမျိုးများကို အကြောင်းကြားခေါ်ငင်လိုက်ရသည်။ ဆွေမျိုးများ ရောက်လာချိန်တွင် မီးဖွားရန်အသင့်ဖြစ်နေလေပြီ။

ထိုအချိန်မှာပင် ထူးခြားမှုတစ်ခုဖြစ်ပေါ်လာပြန်သည်မှာ ဦးထွန်းသာတို့အိမ်ဘုရားခန်းရှေ့၌ ဆွေမျိုးများရောက်မလာမီ ဒေါ်ကျုံးတစ်ဦးတည်းရှိနေစဉ် ဝတ်ဖြူစင်ကြယ်နှင့်လူသူတော်တစ်ဦး ဦးထွန်းသာတို့အိမ်အတွင်းသို့ဝင်ရောက်သွားသည်ကို ပတ်ဝန်းကျင်မှတွေ့မြင်လိုက်ကြခြင်းပင် ဖြစ်၏။ ထိုလူသူတော်ကြီးသည် ဆွေမျိုးများမရောက်လာမီ ဒေါ်ကျုံးကိုပြုစုစောင့်ရှောက်နေပြီး လျှင် ဆွေမျိုးများရောက်ကာမှကွယ်ပျောက်သွားသည်ဟူ၍လည်း ပြောစမှတ်တွင်ခဲ့ပြန်လေသည်။

**သားရတနာဖွားမြင်ခြင်း**

ကောဇာသက္ကရာဇ် ၁၂၀၈–ခုနှစ်၊ နတ်တော်လဆန်း ၁၃–ရက်၊ အင်္ဂါနေ့ညဉ့်တစ်ချက်တီး ကျော်အချိန်[*၃] တွင် (က) အခါမဟုတ်ဘဲ မိုးကြီးရွာခြင်း၊ (ခ) 'သိကြားမင်းလေး သက်တင်ရေး' ခေါ် စို့သက်တံ့ကြီး အိမ်ဝင်းအတွင်းမှကောင်းကင်သို့ပေါက်ထွက်နေခြင်း၊ (ဂ) အရောင်အဝင်း အလင်းလုံးကြီးတစ်ခု ခြံဝင်းအတွင်းရှိ ဝါးလုံးများမှအသံမြည်ဟီးဖြစ်ပေါ်လာပြီး အိမ်ကိုရစ်ပတ်ကာ ကောင်းကင်ထက်သို့တက်သွားခြင်း၊ (ဃ) လူသူတော်ကြီးတစ်ဦး လာရောက်စောင့်ရှောက်ခြင်း–

[*၁] တောလယ်ရွာသည် စိုင်ပြင်ရွာ၏ အနောက်ဘက် တစ်မိုင်အကွာတွင်ရှိသည်။

[*၂] ဦးဝန်၏ တက္ကသိုလ်မြန်မာအဘိဓာန်၊ အပိုင်း–၅။ ၁၉၆၄–ခုနှစ်။ (စာမျက်နှာ–၇၈၀)။

[*၃] ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ ဇာတာတော်နှင့်စပ်၍ လယ်တီထေရုပ္ပတ္တိကျမ်းများ၌ဖော်ပြကြရာတွင် အနည်းငယ်စီကွဲလွဲနေပါ၍ ရနိုင်သမျှစုဆောင်းပြီး နောက်ဆက်တွဲ(၃)၌ဖော်ပြထားပါသည်။



လယ်တီဆရာတော်ကြီး၏ဇာတိချက်ကြွေကတိုးရပ်မြေ



လယ်တီဆရာတော်ကြီးဖွားတော်မူရာ
အိမ်အနီးရှိ မန်ကျည်းပင်ကြီး



လယ်တီဆရာတော်ကြီး၏
ရွှေချက်သိုဗိမာန်



လယ်တီဆရာတော်ကြီးအမည်မှည့်ရာ
ဆည်ကြီးရွာ





လယ်တီဆရာတော်ဘုရားကြီး၏မိဘဘိုးဘွားများကိုးကွယ်ခဲ့သောတဝဂူ(ရွှေ)စေတီနှင့်ရှေးဆင်းတုတော်

စသောနိမိတ်ထူးတို့ဖြစ်ပေါ်ပြီးနောက် မယ်တော်ကြီးဒေါ်ကျုံးတွင် ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးလောင်းလျာသတို့သားကို မီးရှူးသန့်စင်ဖွားမြင်ခဲ့လေသည်။*၁

ဤသို့ ဒေါ်ကျုံး၌ သားရတနာဖွားမြင်နေချိန်တွင် ခမည်းတော်ကြီးဦးထွန်းသာမှာ တောလယ်ရွာမှအပြန် မိမိ၏အိမ်အနီးသို့ရောက်ခါကာမှ ရုတ်တရက်မိုးကြီးရွာချလိုက်သဖြင့် ရွှေဂူဘုရားတွင်းသို့ ခေတ္တမိုးခိုဝင်ရောက်ရင်း ဒေါ်ကျုံးပိုက်လွယ်ထားသောကိုယ်ဝန်သည် ကောင်းမွန်စွာမွေးဖွားနိုင်ပါစေကြောင်းကို ဘုရားရှိခိုးရင်းဆုတောင်းနေချိန်ဖြစ်သည်။ ဦးထွန်းသာ ဤသို့ရွှေဂူဘုရား၌မိုးခိုကာ ဘုရားရှိခိုးဆုတောင်းနေစဉ်အချိန်မှာပင် ဒေါ်ကျုံးတွင် သားရတနာကိုဖွားမြင်ခဲ့ပြီးဖြစ်လေရာ ဦးထွန်းသာအိမ်သို့ပြန်ရောက်လာသောအခါ သားရတနာဖွားမြင်ကြောင်းသတင်းကောင်းကို ကြားသိရလေသည်။

ဦးထွန်းသာ–ဒေါ်ကျုံးတို့၏ မွေးဖွားစသားရတနာလေးသည်ကား 'ရုပ်အင်ပျို့ပျို့၊ မြတ်သူတို့၏၊ မချို့လက္ခဏာ၊ စက်စုံပါ'*၂ ဟူသောစာဆိုအတိုင်း အလွန်ထူးခြားသောကြန်အင်လက္ခဏာတို့ဖြင့်ပြည့်စုံလေသည်။ သတို့သားကလေး၏အသားအရေ၊ ဆံပင်၊ လက်ချောင်းတို့နူးညံ့သည်။ လက်ရုံး၊ နှာခေါင်း၊ မျက်လုံး၊ ပါးစောင်တို့ရှည်သည်။ လက်ခြေဖဝါး၊ အာစောက်၊ နှုတ်ခမ်း၊ လက်သည်း၊ ခြေသည်း၊ လျှာတို့နီမြန်းသည်။ ရင်အုပ်၊ ပခုံး၊ နှာတံ၊ ပါးစောင်တို့ မြင့်မောက်သည်။ လည်တိုင်၊ ခြေသလုံးတို့ တိုသည်။ ယေ်ထိပ်၊ နဖူးတို့ပြန့်ကျယ်သည်။*၃ ချက်နေရာ၌ နက်သည်။ ယောကျ်ားမြတ်တို့လက္ခဏာကိုပြရာဖြစ်သော သာမုဒြိကလက္ခဏာကျမ်းလာ 'အရှည်ငါးပါး၊ ပိုင်းခြားပြဆို၊ အတိုကားလေး'ဟူသော*၄ ကြန်အင်လက္ခဏာတို့နှင့် ညီညွတ်ပြည့်စုံစွာမွေးဖွားလာသော သတို့သားကလေးသည် အသားအရေနီမြန်း၍ လုံးလုံးထွေးထွေးချစ်ချင်စဖွယ် တင့်တယ်သောယောကျ်ားမြတ်ဖြစ်လေတော့သည်။*၅

---

*၁ လယ်တီဦးဝဏ္ဏိတ(ဦးလှတင်)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၆)။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၅)။

*၂ လယ်တီပဏ္ဍိတ၏ လယ်တီဆရာတော်ဘုရားကြီးဘုန်းတော်ဘွဲ့ရတုများ။ (အပိုဒ်–၂)။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ကဗျာမဉ္ဇရီ။ ပညာ့အလင်းပြစာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၂၃–ခုနှစ်။ (စာမျက်နှာ–၁၇၃)။

*၃ ဦးရန်နိုင်၏ သာမုဒြိကလက္ခဏာကျမ်းပါဠိအနက်။ British Burma News Press, ရန်ကုန်မြို့။ ၁၂၄၄–ခုနှစ်။ (စာမျက်နှာ–၃၁)။

*၄ မင်းနဝဒေး၏ သာမုဒြိကလက္ခဏာကျမ်းလင်္ကာ။ British Burma News Press, ရန်ကုန်မြို့။ ၁၂၄၄–ခုနှစ်။ (စာမျက်နှာ–၆၂)။

*၅ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၂၅)။ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးနှင့် နှစ်ပေါင်းများစွာ အတူနေထိုင်ခဲ့သည့်တပည့်ရင်း လယ်တီပဏ္ဍိတဦးမောင်ကြီးက ဆရာတော်ဘုရားကြီး၏ ရုပ်သွင်လက္ခဏာကိုဖွဲ့ဆိုသော တေးထပ်တစ်ပုဒ်သီကုံးခဲ့ဖူးရာ ဆရာဦးမောင်ကြီး၏ ထိုတေးထပ်ကိုဖတ်ကြည့်ခြင်းဖြင့် လယ်တီဆရာတော်ဘုရားကြီး၏ ရူပနိကာယ်သွင်ပြင်ကို အကဲခတ်နိုင်ပါမည်။ ထိုတေးထပ်ကို နောက်ဆက်တွဲ(၄)၌ ဖတ်ရှုနိုင်ပါသည်။ ပဌမလယ်တီဆရာတော်ဘုရားကြီးကို မျက်မြင်သိမီလိုက်ရဖူးသော (၁၂၈၇–ခုနှစ်ဖွား) ဆရာတော်ဦးနန္ဒမာလာ (နိဗ္ဗာနဒီပနီကျောင်း၊ မဟာလယ်တီတိုက်၊ မုံရွာမြို့)က 'ဆရာတော်ကြီးရဲ့သွင်ပြင်လက္ခဏာက ဖွေးဖွေးမြင့်မြင့်မောင်းမောင်းကြီး၊ စကြံသွားနေရင် ဆင်ပေါက်တစ်စီးသွားနေသလိုပဲ'ဟူ၍လည်း (၂၉–၄–၁၉၇၆)နေ့က အမိန့်ရှိတော်မူပါသည်။

ဤသတို့သားကိုတွေ့မြင်ကြရသော စိုင်ပြင်ရွာသူရွာသားတို့က 'အတိတ်ထူးနိမိတ်ထူးများဖြင့် မွေးဖွားလာသောကြောင့် ဘုန်းသမ္ဘာနှင့်ပြည့်စုံသော သားယောက်ျားလေးဖြစ်သည်' ဟူ၍ ပြောကြပြီးလျှင်၊ စာပေတတ်သိပညာရှိရဟန်းရှင်လူတို့ကမူ– 'ဤသတို့သားကလေးသည်ကား ကတပုညဝိသေသကော=ရှေးရှေးဘဝကဖြည့်ဆည်းဖူးအပ်ပြီးသော ကောင်းမှုကံထူးရှိပေသော (တစ်နည်း) မဟာဓညပုညလက္ခဏာသညုတော=မြတ်သောဘုန်းပညာလက္ခဏာနှင့်ပြည့်စုံသော လူကလေးပါတကား' စသည်ဖြင့် ချီးကျူးစကားပြောဆိုကြကုန်၏။

**မောင်တက်ခေါင်**

လယ်တီဆရာတော်ဘုရားကြီးလောင်းလျာသတို့သား၏အမည်မှည့်ရန်အတွက် ခမည်းတော်ကြီးဦးထွန်းသာနှင့် မယ်တော်ကြီးဒေါ်ကျုံးတို့သည် သားကလေးကိုခေါ်ဆောင်၍ ဆယ်ကြီးရွာနေ ဗေဒင်ဆရာကြီးဦးကျော်လှထံသို့ သွားခဲ့ကြ၏။ ဆရာကြီးဦးကျော်လှက ဦးထွန်းသာအား ရှေးမဆွကပင် ဤသူတို့သားငယ်မွေးဖွားလာပါက မိမိထံအကြောင်းကြားရန်နှင့် အမည်မှည့်ပေးမည့်အကြောင်း စသည်ဖြင့် မှာကြားထားသောကြောင့်ဖြစ်သည်။

ဦးထွန်းသာ–ဒေါ်ကျုံးတို့သည် ဆရာကြီးဦးကျော်လှထံရောက်လျှင်ပင် မိမိတို့၏သားကလေးမွေးစဉ်အခါက မဖြစ်ဖူးမြဲထူးကဲစွာဖြစ်ပေါ်လာသော နိမိတ်ထူးတို့ကိုပြောပြကြသည်။ ဆရာကြီးဦးကျော်လှက သတို့သားကလေးကို သေချာစွာကြည့်ရှုပြီး 'အိမ်း–ကောင်းပေပြီ၊ ဤသတို့သားငယ်၏အမည်ကို သူမွေးဖွားစဉ်ကဖြစ်ပေါ်ခဲ့သောနိမိတ်ထူးတို့ကို အတိတ်နိမိတ်ကောက်ယူပြီး အမည်ကိုပေးမည်၊ စင်စစ် ဤသတို့သားသည် မွေးဖွားစအချိန်ကပင် အမည်ပါလာသူဖြစ်ချေသည်'ဟုပြောကြားပြီး မွေးဖွားစဉ်အခါက အိမ်ခေါင်အထက်သို့မီးတောက်မီးညွန့်များတက်စွဲဟန်နိမိတ်ကိုယူကာ 'မောင်တက်ခေါင်'ဟူသောအမည်ကိုပေးအပ်ခဲ့လေသည်။*၁

ရှေးခေတ်က မြန်မာတို့ဓလေ့အမည်မှည့်ကြရာတွင် ကလေးငယ်မွေးဖွားစဉ်ကာလက ဖြစ်ပေါ်လာသော အတိတ်နိမိတ်တို့ကိုကြည့်၍ အမည်ပေးတတ်၏။ သို့မဟုတ်က ကလေး၏ ရုပ်ရည်သွင်ပြင်ကိုကြည့်၍၊ ကလေးငယ်၏အမူအကျင့်စရိုက်လက္ခဏာကိုအကဲခတ်၍ သင့်လျော်ရာအမည်တစ်ခုခုကိုလည်း ရွေးချယ်ပေးလေ့ရှိသည်။ အချို့သောကလေးတို့မူကား ဦးစွာမွေးဖွားခဲ့ပြီးသော သားကြီး၏အမည်နှင့် ကာရန်အတူထားကာ အမည်မှည့်လေ့ရှိကြပြန်ပါသည်။ ထိုခေတ်ထိုအခါက နေ့သင့်နံသင့်မှည့်ခေါ်မှုအလေ့နည်းပါးသေးသည်ဟုဆိုရပေမည်။

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၈)။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၂၇)။ ဆရာစိုးကမူ 'ဆယ်ကြီးရွာ ဗေဒင်ဆရာကြီးဘိုးကျော်လှကို စိုင်ပြင်ရွာသို့ပင့်၍ အမည်ပေးပွဲခမ်းနားစွာပြုလုပ်ကြောင်း' ရေးသားထားသည်။ ဆရာစိုး၏ လယ်တီဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ–၆)။ အခြားမူတစ်စောင်၌ စိုင်ပြင်ရွာမှ ရှေးမီနောက်မီပညာရည်ပြည့်သူလူကြီးတစ်ဦးက လယ်တီဆရာတော်ကြီးလောင်းလျာသတို့သား မွေးဖွားစဉ်မှာပင် အတိတ်နိမိတ်တို့ကိုကြည့်ပြီး မောင်တက်ခေါင်ဟု အမည်ပေးခဲ့ကြောင်း ရေးထားသည်။ ဗမာ့ခေတ်သတင်းစာတိုက်၏ လယ်တီထေရုပ္ပတ္တိချုပ်။ (စာမျက်နှာ–၆၊ ၇)။ အခြားမူတစ်စောင်၌ မိဘဆွေမျိုးများက ဤအမည်ကိုပေးသည်–ဟု ရေးထားသည်။ Ashin Nānissara' A Short Biography of The Venerable Ledi Sayadaw. Sitagu Dhamma Publication 7, Sagaing, 1996. Page-2.

ဥပမာသော်-သာယာဝတီမင်းလက်ထက် သက္ကရာဇ် ၁၁၆၁-ခုနှစ်ဖွား ဒုတိယသံအင်း သာသနာပိုင်ဆရာတော်ဘုရားကြီးအရှင်ဉေယျဓမ္မ(အေဒီ ၁၇၉၉-၁၈၆၅)ဖွားတော်မူစဉ်အခါက သားဖွားခန်းအတွင်း သန်စွမ်းသောမှိုပွင့်ကြီးနှစ်ပွင့်ပေါ်ထွက်လာသည်ကိုအတိတ်နိမိတ်ယူလျက် 'မောင်သန်မှို' ဟုမှည့်ခေါ်ခဲ့ကြ၏။*၁

စစ်သူကြီးမဟာဗန္ဓုလမွေးဖွားစဉ်အခါကလည်း တစ်ကိုယ်လုံး အချင်းတွေ ရစ်ပတ်လျက် မွေးဖွားလာသောကြောင့် 'မောင်ရစ်'ဟုခေါ်တွင်ခဲ့ကြ၏။*၂

ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်တည် ရေစကြိုဆရာတော်ဘုရားကြီး(အေဒီ ၁၈၃၂-၁၉၁၄)၏အမည်ကို မှည့်အံ့သောအခါ အစ်ကိုများဖြစ်သော မောင်မှတ်၊ မောင်လတ်တို့၏အမည်နှင့် ကာရန်တူယူကာ 'မောင်ထတ်'ဟုမှည့်ခေါ်ခဲ့ကြပါသည်။*၃

ခင်မွန်သုံးဂိုဏ်းချုပ်ဆရာတော်ဘုရားကြီး(အေဒီ ၁၈၂၈-၁၉၁၄)သည် မွေးဖွားတော်မူစဉ် အခါက ရုပ်ရည်နုနယ်ဖြူစင်သိမ်မွေ့တင့်တယ်တော်မူပါသဖြင့် 'မောင်နု'ဟု ချစ်စနိုးခေါ်ခြင်း မျိုးတို့ဖြစ်ပါသည်။*၄

## ပညာသင်ရန်

လယ်တီဆရာတော်ကြီးလောင်းလျာမောင်တက်ခေါင်ကလေးသည် မိဘနှစ်ပါးတို့၏အေးမြသောမေတ္တာရိပ်အောက်ဝယ် မပူမပင်မကြောင့်မကြရဘဲ ချမ်းမြေ့စွာနေခဲ့ရာ ပညာသင်ယူရန် အရွယ်သို့ရောက်ရှိခဲ့လေသည်။*၅ ခမည်းတော်ဦးထွန်းသာ၊ မယ်တော်ဒေါ်ကျုံးတို့သည် သားလေး ပညာသင်ကြားပေးရန်အချိန်ကျရောက်လာသောအခါ သားသမီး၏ရေးရေးကို ကြောင့်ကြမြဲ ဖြစ်သော မိဘတို့၏ဓမ္မတာ မိမိတို့သားကလေးကို အချိန်အရွယ်ရောက်ရှိ အတတ်ပညာသင် မပေးပါမူ တစ်နေ့သော် မရှိတာထက် မသိတာခက်သည့် အသိတရားနည်းပါး လူနုံလူအ လူ့သည်ဖြစ်သွားမည့်အရေးကို တွေးတောပူပန်မိကာ သားငယ်ကလေး၏ပညာသင်ကြားရေး အတွက် တိုင်ပင်ကြသည်။

ထိုခေတ်ထိုအခါက ဗုဒ္ဓဘာသာမြန်မာလူမျိုးတို့သည် မိမိတို့သားသမီး ပညာသင်ရန် အရွယ်ရောက်ရှိပါက ရပ်ရွာတွင်းရှိ မိမိတို့ကိုးကွယ်သောဆရာဘုန်းကြီးထံအပ်နှံကာ ပညာသင်ယူ

*၁ မောင်းထောင်မှ ရဟန်းတော်တစ်ပါး(ဦးသုဒဿန)၏ မောင်းထောင်ရပ်လုံးဖော်ဒီကာ။ ရဲမြလွင်စာပေ၊ ရန်ကုန်မြို့။ ၁၉၉၈-ခုနှစ်။ (စာမျက်နှာ-၁၀၈)။

*၂ ဦးသိမ်းမောင်၏ စစ်သူကြီးမဟာဗန္ဓုလ။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၁၉၉၀-ပြည့်နှစ်။ (စာမျက်နှာ-၃)။

*၃ အရှင်ကေလာသ၏ အရှင်ဂန္ဓသာရမဟာထေရ်မြတ်၏ မဟာထေရုပ္ပတ္တိ ပဒီပိကာ။ ဗုဒ္ဓသာသနအဖွဲ့၊ ရန်ကုန်မြို့။ ၁၉၇၆-ခုနှစ်။ (စာမျက်နှာ-၇၉)။

*၄ ခင်မွန်ဆရာတော်ကြီး၏အစ်ကိုမှာ ဦးပိုးဖြစ်၍ ဆရာတော်ကြီးကို မောင်စိုး-ဟုအမည်မှည့်ဟန်ရှိသည်။ အရှင်ပဏ္ဍိတ မထေရ်၏ ရွှေကျင်သာသနာဝင်။ ဗုဒ္ဓသာသနာအဖွဲ့၊ ရန်ကုန်မြို့။ ၁၉၆၃-ခုနှစ်။ (စာမျက်နှာ-၃၈၈)။

*၅ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၉)၌ '၁၀-နှစ်သားအရွယ်၌ ပညာသင်ကြားရန် ကျောင်းအပ်နှံသည်'ဟုဖော်ပြထားပြီး၊ လယ်တီဦးလှပိုင်၏လယ်တီဂန္ထဝင်ကျော်များ။(စာမျက်နှာ-၂၈)၌ 'ရှစ်နှစ်သား အရွယ်၌ ပညာသင်ကြားရန်ကျောင်းအပ်နှံသည်'ဟုဖော်ပြထားကြပါသည်။

စေမြဲဖြစ်သည်။ ဆရာဘုန်းကြီးတို့ကလည်း မိမိထံသို့အပ်နှံလာသောကလေးငယ်တို့ကို စာပေသင်ကြားပေးရုံမျှမက ယဉ်ကျေးလိမ္မာစေရန်နှင့် ဘဝတစ်သက်တာလူကောင်းသူကောင်းအဖြစ်သို့ ရောက်ရှိသွားစေရန် ဆုံးမပဲ့ပြင်သွန်သင်ပေးကြသည်။ ထူးချွန်မည့်အလားအလာရှိသော တပည့်ကျောင်းသားကိုမူ သတိပြုရွေးချယ်၍ အထူးအခွင့်အလမ်းပေးသင်ကြားပြသခဲ့သည်။ တပည့်ဖြစ်သူတို့ကလည်း ဆရာဘုန်းကြီးကိုမှီခို၍ အခြေခံပညာကိုသင်ယူကြကာ လူတစ်လုံးသူတစ်လုံးဖြစ်လာကြရသဖြင့် မိဘထက်ပင် ဆရာသမားကိုကြောက်ရွံ့ရိုသေလေးစားကြလေသည်။ခေါင်းဖြူစွယ်ကျိုး အသက်ကြီးရင့်လာသည့်တိုင် ငယ်ဆရာဘုန်းတော်ကြီးကို မလေးမခန့်မလုပ်ဝံ့ကြပေ။

စိုင်ပြင်ရွာအနေဖြင့် ရွာ၏မြောက်ဖျား၌ တောရကျောင်းတစ်ကျောင်းရှိပြီး၊ *၁ မောင်တက်ခေါင်တို့အိမ်နှင့်မနီးမဝေးတွင် ဘုန်းကြီးဦးနန္ဒ၏ဖျောက်ဆိပ်ပင်ကျောင်း၊ *၂ ဦးဂုဏ၏ရွာမြောက်ကျောင်းခေါ် ကျောင်းမကျောင်းနှင့် ဘုန်းကြီးဦးဓမ္မသာရ၏မြင်ထင်ကျောင်းဟူ၍ ကျောင်းသုံးကျောင်း နီးနီးကပ်ကပ်တည်ရှိသည်။ ထိုသုံးကျောင်းစလုံးကို ဦးထွန်းသာတို့ကိုးကွယ်ကြသည်။ ထိုသုံးကျောင်းတွင် ဘုန်းကြီးဦးနန္ဒ၏ဖျောက်ဆိပ်ပင်ကျောင်းသည် အိမ်နှင့်အနီးဆုံးဖြစ်ပြီး ကျောင်းဘုန်းကြီးဦးနန္ဒသည် အလွန်စိတ်ရှည်သောကြောင့် မောင်တက်ခေါင်ကလေးကို ဖျောက်ဆိပ်ပင်ကျောင်း၌အပ်နှံရန် ဆုံးဖြတ်ခဲ့ကြသည်။

**ဖျောက်ဆိပ်ပင်ကျောင်း**

ဖျောက်ဆိပ်ပင်ကျောင်းသည် ကတိုးရပ်နှင့် ဘုတ်မချောင်းကလေးသာခြားပြီး တည်ရှိနေ၏။ ကျောင်း၏တောင်ဘက်၌ ရွှေဂူဘုရားရှိပြီး ကျောင်း၏မြောက်ဘက်အဝင်ဝ၌ ရွှေပေါက်ထောင်ဘုရားရှိ၏။ ဖျောက်ဆိပ်ပင်ကျောင်းကြီးသည် ရှေးအသားကျောင်းကြီးဖြစ်ပြီး ပန်းပုလက်ရာများဖြင့် အလွန်လှပတင့်တယ်အချိုးအစားကျနလှသည်။ ကျောင်းအောက်တိုင်ခြေမှာ တိုင်စေ့နယားရုပ်ပန်းပုလက်ရာတို့ တပ်ဆင်ထားရှိ၏။ ကျောင်းပတ်ဝန်းကျင်မှာလည်း သစ်ကြီးဝါးကြီးများပေါက်ရောက်ကာ အလွန်သာယာလှပဆိတ်ငြိမ်သောကျောင်းကြီးဖြစ်လေသည်။ ထို့ပြင် ကျောင်းဝင်းအတွင်း ရှေးကတည်ထားခဲ့သောနဂါးရုံဘုရား၊ သာဒွန်းဦးဂူဘုရားနှင့် သုံးမျက်နှာဘုရားတို့ရှိလေသည်။ သာဒွန်းဦးဂူဘုရားအတွင်း အုတ်အင်္ဂတေဖြင့်ပြုလုပ်ထားသော ရှေးလက်ရာဆင်းတု

*၁ ထိုတောရကျောင်းတွင်းရှိ ရေကန်ကို သက္ကရာဇ် ၁၂၂၅–ခုနှစ်က ဘေးမဲ့ကန်အဖြစ်သတ်မှတ်သည်။ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၃၁၆)။

*၂ ဖျောက်ဆိပ်ပင်ကျောင်းသည် ယခုအခါ ကျောင်းမကျောင်းနှင့် တပေါင်းတည်းဖြစ်နေပြီး၊ ကျောင်းမကျောင်း၏အဝင်ဝ ရှစ်မျက်နှာ စေတီတော်နံဘေးရှိ ကမ္မဋ္ဌာနဒီပနီကျောင်းအုတ်တိုက်နေရာသည် မူလဖျောက်ဆိပ်ပင်ကျောင်းနေရာဖြစ်၏။ လယ်တီဆရာတော်ကြီး၏ဖွားတော်မူရာအိမ်နေရာကို ဝိဇာတကုန်းတော်အဖြစ်သတ်မှတ်၍ ရွှေချက်သို ဗိမာန်ဆောက်လုပ်ရန် မြေရှင်းအုတ်မြစ်ချသော သက္ကရာဇ် ၁၃၂၁ (၁၉၅၉)ခုနှစ်က မူလဖျောက်ဆိပ်ပင်ကျောင်းကြီးကိုပါ ဖျက်လိုက်ကြောင်းသိရသည်။ မူလဖျောက်ဆိပ်ပင်ကျောင်းအနီး၌ပေါက်ခဲ့သော ဖျောက်ဆိပ်ပင်ကြီးကား သက္ကရာဇ် ၁၃၆၀–ပြည့်နှစ် (၁၉၉၈–ခုနှစ်)အထိရှိသေး၏။ ပုပ္ပားဦးကျော်ရင် အသက်ထင်ရှားရှိစဉ်က ဖျောက်ဆိပ်ပင်ကိုအစွဲပြု၍ ဖျောက်ဆိပ်ပင်ကျောင်းဟုခေါ်ဆိုကြောင်းပြောပြပြီး ဖျောက်ဆိပ်ပင်ကြီးကို မကြာမကြာလာရောက်ကြည့်ရှုကာ ဓာတ်ပုံရိုက်ယူခဲ့ကြောင်းတို့ကို ကျောင်းမကျောင်းဆရာတော် ဦးဓမ္မပါလ(၈–၁၂–၁၉၉၇)နေ့ကအမိန့်ရှိပါသည်။

တော်ကြီးတစ်ဆူရှိသည်။ ဂူနံရံများတွင် ဇာတ်ကြီးဆယ်ဘွဲ့၊ ငါးရာငါးဆယ်စသော ဇာတ်နိပါတ်သရုပ်ဖော်ပုံများ ရောင်စုံရေးဆွဲထားသည်။ သုံးမျက်နှာဘုရားကား အလွန်ဖူးတွေ့ရခဲသောစေတီပုထိုးပုံစံမျိုးဖြစ်သည်။

ဖျောက်ဆိပ်ပင်ကျောင်းဘုန်းကြီးဦးနန္ဒသည် မောင်တက်ခေါင်ကလေး မိမိကျောင်းသို့ရောက်ရှိလာပြီးနောက်၊ အခြေခံသင်ရိုးစာတို့ကို စတင်၍သင်ကြားပေးလျှင်ပင် ထိုသူငယ်ကလေး၏ထူးချွန်ပြောင်မြောက်သောပညာဉာဏ်ကိုအကဲခတ်မိပြီး တစ်ဦးတည်းခွဲထားကာ အထူးဂရုပြု၍သင်ကြားပေးတော်မူခဲ့သည်။ မောင်တက်ခေါင်သည် အခြားကျောင်းသားတို့ တစ်လခန့်ကျက်မှကျေပြွန်မည့်စာကို ခုနစ်ရက်နှင့်ရအောင် ကျက်မှတ်နိုင်စွမ်းရှိသည်။ ထိုခေတ်က ဘုန်းကြီးကျောင်းသင်ခန်းစာများမှာ သင်ပုန်းကြီး၊ နမက္ကာရ၊ အတွင်းအောင်ခြင်း၊ အပြင်အောင်ခြင်း၊ ပရိတ်ကြီး၊ လောကနီတိ၊ ဓမ္မနီတိစသည်တို့ဖြစ်ရာ၊ ထိုသင်ခန်းစာတို့ကို မောင်တက်ခေါင်အဖို့ မပင်မပန်းလွယ်လင့်တကူ နှုတ်တက်အာဂုံဆောင်နိုင်ခဲ့လေသည်။*၁

ဘုန်းကြီးဦးနန္ဒသည် မောင်တက်ခေါင်ကလေး၏စွမ်းရည်ကို သိမြင်တော်မူသည့်အတိုင်းတစ်ဆင့်ထက်တစ်ဆင့်တိုး၍ သင်ကြားချီးမြှောက်ပေးတော်မူပါသည်။ ဤသို့ တဖြည်းဖြည်းအခြေပျိုးလျက်သင်ကြားပေးသည့်နည်းကို 'နားထွင်းသင်နည်း' ဟုခေါ်သည်။ ထို့ပြင် မောင်တက်ခေါင်သည် 'မကြီးသက်ရွယ်၊ အငယ်သော်က၊ ကြိုးလုံ့လလျက်၊ နိမ့်ချပုဆစ်၊ ဆရာစစ်၌၊ ကြောက်ချစ်ရိုသေ၊ လုပ်ကျွေးထွေဖြင့်၊ စာပေတတ်ကြောင်း၊ အချောင်းချောင်းလျှင်၊ မြိမ့်မောင်းသည်းခံ၊ ဆရာ့ထံ၌၊ သင်အံ့ကျက်လေ့၊ တနေ့တပါး၊ မှတ်သားလေလေ၊ ဝမ်းထဲခွေ' ဟူသောရှေးဆုံးမစာလင်္ကာအတိုင်းပင်*၂ ဆရာသမားထံမှ ရှိသေစွာပညာကိုလိုလိုလားလားဆည်းပူးရုံမကဆရာသမားကို ရေပူရေချမ်းကမ်းလှမ်းပြုစုကာ တပည့်ဝတ်မချွတ်သည်ဖြစ်၍ ဆရာတို့၏ချစ်ခင်တွယ်တာခြင်းကိုခံယူရသော ဆရာချစ်တပည့်ကလေးတစ်ဦးအဖြစ်သို့ရောက်ရှိခဲ့သည်။*၃

**သာသနာ့ဘောင်သို့**

သက္ကရာဇ် ၁၂၂၃ (အေဒီ–၁၈၆၁)ခုနှစ်တွင် မောင်တက်ခေါင် ၁၅–နှစ်အရွယ် ရှင်ပြုရန်အချိန်တန်လာသောအခါ ခမည်းတော်ဦးထွန်းသာနှင့် မယ်တော်ဒေါ်ကျုံးတို့က ဖျောက်ဆိပ်ပင်ကျောင်းဘုန်းတော်ကြီးဦးနန္ဒထံတော်မှာပင် 'သာမဏေအဖြစ်ချီးမြှောက်ပေးတော်မူပါ' ဟု အပ်နှံခဲ့ကြသည်။မောင်တက်ခေါင်ကလေး မြင့်မြတ်သောသာမဏေဘောင်သို့ရောက်ရှိကာ အရဟတ္တဓဇသာမဏေရဝတ်ပန်းဆင်မြန်း၍ ဘုရားသားတော်ကလေးဖြစ်လာချိန်တွင် မိဘနှစ်ပါးတို့အဖို့အထူးဝမ်းမြောက်ဝမ်းသာဖြစ်ကြသည်။ မောင်တက်ခေါင်ကလေး ရှင်သာမဏေဖြစ်လာခြင်းကိုမိဘတို့ထက် ဖျောက်ဆိပ်ပင်ကျောင်းဘုန်းကြီးဦးနန္ဒက ပို၍ဝမ်းမြောက်နေ၏။ ဘုန်းကြီးဦးနန္ဒကသူ့တပည့်မောင်တက်ခေါင်သည် စာတော်စာတတ်ကလေး၊ သည်လိုတပည့်မျိုးကို အထက်တန်း

---

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထ ဝင်ကျော်များ။ (စာမျက်နှာ–၂၉)။

*၂ ဦးရှင်ကလေး၏ သုတမဉ္ဇူဆုံးမစာ၊ (အပိုဒ်–၁၄)။ နှလုံးလှဆုံးမစာပေါင်းချုပ်ကြီး။၁၉၈၈–ခုနှစ်။(စာမျက်နှာ ၁၆၅–၁၆၆)။

*၃ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၉)။

ကျသော ပရိယတ္တိစာပေများသင်ပေးလိုက်ရလျှင် ရှင်တော်ရှင်ကောင်းရှင်မွန်ဖြစ်လာမည်ဟု မျှော်လင့်ထားပြီးဖြစ်သည်။

ဘုန်းကြီးဦးနန္ဒသည် ရှင်သာမဏေဘွဲ့အမည်ကိုပေးသောအခါ မောင်တက်ခေါင်၏နက်နဲသောဂမ္ဘီရဉာဏ်၊ ထက်သန်စူးရှသောဉာဏ်-စသည်ကိုရည်ရွယ်၍ 'ဉာဏ်တည်းဟူသော အောင်တံခွန်ရှိသောပုဂ္ဂိုလ်'ဟု အနက်အဓိပ္ပာယ်ရသည့် 'ဉာဏဓဇ'*၁ ဟူသောဘွဲ့ကိုပေးအပ်ခဲ့ပါသည်။

မောင်တက်ခေါင်သည် ရှင်ဉာဏအဖြစ်သို့ရောက်ရှိလာသောအခါ ဖျောက်ဆိပ်ပင်ကျောင်းဘုန်းကြီးဦးနန္ဒထံ သင်ရိုးကျမ်းစာများကိုသင်ယူခဲ့ပြီး ကာလအတန်ကြာလျှင် ပါရမီဉာဏ်ရင့်ထွားစွမ်းအားအလျောက် ပိဋကတ်စာပေ၌ပေါက်ရောက်လိမ္မာသော သာမဏေကျော်တစ်ပါးဖြစ်လာခဲ့သည်။ ရှင်ဉာဏသည် ပရိယတ်စာပေဘက်မှာသာ စံပြဖြစ်သည်မဟုတ်သေးဘဲ အကျင့်ဘက်တွင်လည်း စံပြကိုရင်အဖြစ်ကျော်ကြားခဲ့သည်။

ဖျောက်ဆိပ်ပင်ကျောင်းဘုန်းကြီးဦးနန္ဒသည် အနေအထိုင်ရိုးသားသော တောဘုန်းကြီးပီပီ 'ရှင်ရဟန်းဖြစ်က အနေအထိုင်ရိုးသားစေရမည်'ဟူသောအယူရှိသည့်အတိုင်း တပည့်ရှင်ဉာဏကို ရှင်သာမဏေတို့ကျင့်သုံးဆောက်တည်ရမည့် သေခိယကျင့်ဝတ်တို့ကို ရိုရိုသေသေလေးလေးစားစား ကျင့်သုံးဆောက်တည်စေခဲ့သည်။ ရိုရိုသေသေလေးလေးစားစား ကျင့်သုံးဆောက်တည်တတ်အောင်လည်း သွန်သင်ဆုံးမပေးတော်မူခဲ့သည်။ သို့ဖြင့် ရှင်ဉာဏသည် မြတ်စွာဘုရားရှင်၏ သာသနာတော်၌လေးမြတ်သောစိတ်ထားရှိသူပီပီ 'ဝတ်ရုံနှစ်ဖြာ၊ ဝန်းညီညာနှင့်၊ ရွာမှကြုံတောင်း၊ ကောင်းစွာဖုံးလွှမ်း၊ မယမ်းခြေလက်၊ မျက်လွှာလည်းချ၊ ခါးမှထက်ရောက်၊ မမြှောက်ကိုယ်ရုံ၊ ဆယ်ပါးတုံ၊ လုံစေအသီးသီး'ဟူသောလင်္ကာအတိုင်း သင်္ကန်းအဝတ်အရုံမှစ၍ သေခိယသိက္ခာပုဒ်ဝိနည်းစည်းကမ်းတော်ကို အချိုးကျနစွာလိုက်နာကျင့်သုံးသည်ဖြစ်၍၊ ကာယကံအမူအရာ, ဝစီကံအမူအရာ ယဉ်ကျေးသိမ်မွေ့လျက် ရှင်သာမဏေပြုစဉ်အခါက ဥပဇ္ဈာယ်ဆရာ မိန့်ကြားလိုက်သည့် 'ပါသာဒိကေန သမ္ပါဒေထ'ဟူသောမိန့်မှာချက်အတိုင်း ကြည်ညိုဖွယ်အသွင်ကိုဆောင်နိုင်ခဲ့ပြီဖြစ်သည်။*၂

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ မဟာလယ်တီထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၉)။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များသမိုင်း။ (စာမျက်နှာ-၃၀)။ ရွှေမုံတင်၏ လယ်တီနေမင်းကျမ်း။ (စာမျက်နှာ-၆၁)တွင် သာမဏေဘွဲ့ကို 'ရှင်ဉာဏဝံသ'ဟု ပေးကြောင်းဖော်ပြထားကြ၏။ ဟင်္သာတမြို့ မြစ်ကွေ့ဆရာတော်ဦးပညာဝံသ၏ လယ်တီမဟာထေရသံခေပဉပ္ပတ္တိမဉ္ဇရီ၌ 'သာမဏေအဖြစ်ကိုရ၏။ 'ရှင်ဉာဏ'ဟူ၍ဘွဲ့ပေးတော်မူ၏။ ၎င်းနောက် ရဟန်းဖြစ်က 'ရှင်ဉာဏာဘိဝံသ'ဟူ၍လည်းကောင်း၊ 'ရှင်ဉာဏဓဇ'ဟူ၍လည်းကောင်း ဆရာကျော်တို့မှည့်ခေါ်ကြကုန်၏'-ဟုပြထား၏။ လယ်တီဆရာတော်ကြီး၏ သင်္ဂြိုဟ်မဟာဋီကာသစ်ပါဌ်။ ၁၂၉၂-ခုနှစ်။ (စာမျက်နှာ-ဎ)။

*၂ လယ်တီပဏ္ဍိတ၏ လယ်တီထေရုပ္ပတ္တိဘုန်းတော်ဘွဲ့၊ ဂါထာအမှတ်(၄)တွင် 'ပန္နရသဝဿိကော သော၊ ပတ္တော သာမဏေရတံ ဝရံ။ ဓိတိမာ သီလဝါ ဆေကော၊ ပရိယတ္យာဘိရာမကော'ဟု ရေးဖွဲ့ထား၏။ မြန်မာအနက်ကား- 'သော=ထိုသတို့သားသည်၊ ပန္နရသဝဿိကော=အသက်အရွယ်တစ်ဆယ့်ငါးနှစ်ရောက်လတ်သော်၊ ဝရံ=မြတ်လှစွာသော၊ သာမဏေရတံ=ရှင်သာမဏေ၏အဖြစ်သို့၊ ပတ္တော=ရောက်လေ၏။ ဓိတိမာ=ပြင်းမိုပမာ လွန်စွာတည်ကြည်နိုင်ခန့်သော သမာဓိလည်းရှိတော်မူ၏။ သီလဝါ=သီလလည်းရှိတော်မူ၏။ ဆေကော=အစစအရာရာ၌ လိမ္မာကျွမ်းကျင်တော်မူ၏။ ပရိယတျာဘိရာမကော=ပရိယတ္တိအရာ၌လည်းလွန်စွာမွေ့ပျော်တော်မူ၏'-ဟုဖြစ်သည်။ လယ်တီပဏ္ဍိတ၏ ကဗျာမဉ္ဇရီ။ ၁၃၂၃-ခုနှစ်။ (စာမျက်နှာ-၁၄၈)။

**သူကြီးဦးဆိုင်း၏ ဒေဝဓမ္မဇာတ်တရား**

ကိုရင်ဉာဏ စိုင်ပြင်ရွာတွင်းသို့ဆွမ်းခံဝင်သောအခါ ကျောင်းမကျောင်း၏ကျောင်းဒကာ စိုင်ပြင်သူကြီးဦးဆိုင်း၏အိမ်သို့ ဝင်ရောက်ဆွမ်းရပ်မြဲဖြစ်သည်။ သူကြီးမင်းကလည်း ကိုရင်ဉာဏကို ဉာဏ်ထက်သောစာတော်ကိုရင်ကလေးဟုသိနေသဖြင့် 'ကိုရင် စာကျက်ရဲ့လား?၊ ဘာစာတွေ ရပြီးလဲ?' စသည်မေးမြန်းလေ့ရှိပါသည်။

တစ်ကြိမ်သောအခါတွင် ကျောင်းတကာသူကြီးဦးဆိုင်းက ပစ္စည်းအသုံးအဆောင်များစွာ စုဆောင်းပြီး အရှက်အကြောက်ကင်းမဲ့သောရဟန်းတစ်ပါးကိုအကြောင်းပြု၍ ဘုရားရှင်ဟောကြား အပ်သည့် ငါးရာ့ငါးဆယ်နိပါတ်၊ အပဏ္ဏကဝဂ်လာ ဒေဝဓမ္မဇာတ်တော်(ဇာ၊၁၊၂။ ဇာ၊၌၊၁။၁၄၂)ကို ပြောပြ၏။ ဒေဝဓမ္မဇာတ်တော်တွင်ပါသောဇာတ်ဂါထာကို သူကြီးဦးဆိုင်းက 'ကိုရင်–ကျက်ထား၊ ဒီဂါထာသိပ်ကောင်းတယ်' ပြောပြီး အောက်ပါအတိုင်းအနက်နှင့်တကွရွတ်ပြလေ၏။

> ဟိရီဩတ္တပ္ပ သမ္ပန္နာ၊ သုက္ကဓမ္မာ သမာဟိတာ။
> သန္တော သပ္ပုရိသာ လောကေ၊ ဒေဝဓမ္မာတိ ဝုစ္စရေ။ ။
>
> လောကေ–လောက၌၊ ဟိရီဩတ္တပ္ပသမ္ပန္နာ–ဟိရီဩတ္တပ္ပတရားနှစ်ပါးနှင့်ပြည့်စုံ ပေကုန်သော၊ သုက္ကဓမ္မာ–ဖြူစင်သောအကျင့်သီလရှိပေကုန်ထသော၊ သမာဟိတာ– တည်ကြည်သောသမာဓိရှိပေကုန်ထသော၊ သန္တော–ငြိမ်းမွမ်းထိုက်ပေကုန်ထသော၊ သပ္ပုရိသာ–သူတော်ကောင်းတို့ကို၊ ဒေဝဓမ္မာတိ–ဒေဝဓမ္မတရားနှစ်ပါးနှင့်ပြည့်စုံသော သူတို့ပေဟူ၍၊ ဝုစ္စရေ–ဟောတော်မူအပ်ကုန်၏။*၁

ဤဂါထာသည် ဟိရီ,ဩတ္တပ္ပတရားနှစ်ပါးကိုစောင့်ရှောက်ကျင့်သုံးတတ်အောင် မြတ်စွာ ဘုရားရှင်ဟောကြားအပ်သောဂါထာဖြစ်၍ သူကြီးဦးဆိုင်းက 'ကိုရင်– သည်ဤဂါထာအတိုင်း ဟိရီ,ဩတ္တပ္ပတည်းဟူသော အရှက်နှင့်အကြောက်တရားနှစ်ပါးကို သက်ထက်ဆုံးလုံခြုံအောင် စောင့်ထိန်းပါလေ'ဟု ဆုံးမစကားပြောကြားလိုက်ရာ၊ ရှင်ဉာဏကလည်း 'ငါတစ်နေ့ကြီးလာလို့ ရဟန်းဖြစ်လျှင် မြတ်စွာဘုရားရှင်အလိုရှိသည့်အတိုင်း ဟိရီနှင့်ဩတ္တပ္ပတရားနှစ်ပါးလက်ကိုင် ထား၍ ပစ္စည်းနည်းပါးစေမည်၊ ရသမျှနှင့်ရောင့်ရဲစေမည်၊ တစ်ကိုယ်တည်းဆိတ်ငြိမ်ရာ၌နေမည်' ဟူသော နှလုံးသွင်းရှိခဲ့လေသည်။

**မြင်ထင်ကျောင်း၌စာဝါလိုက်ခြင်း**

ကိုရင်ဉာဏသည် အထက်တန်းကျသောပရိယတ္တိစာပေများကို သင်ယူနိုင်လောက်သော အခြေသို့ရောက်ရှိလာသော် ရှင်မောဂ္ဂလိပုတ္တတိဿ၏ဥပဇ္ဈာယ်ဆရာ အရှင်သိဂ္ဂဝမထေရ်က အရှင်မောဂ္ဂလိပုတ္တတိဿလောင် သျှာသာမဏေငယ်ကို အရှင်စန္ဒဝဇ္ဇိမထေရ်ထံသို့စေလွှတ်ပြီး ပညာသင်ရန်အပ်နှံသည့်ထုံးကိုနှလုံးမူ၍ ဘုန်းကြီးဦးနန္ဒသည်လည်း တပည့်ချစ်ရှင်ဉာဏကို

---

*၁ ဂန္ထိရကဗျာကျမ်းလာ စိုင်ပြင်သေရည်သေရက်မေတ္တာစာမှရရှိသောအချက်ကိုတင်ပြခြင်းဖြစ်သည်။ လယ်တီဆရာတော် ကြီး၏ ဂန္ထိရကဗျာကျမ်း။ ရွှေပြည်တန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ ၁၄–၂၀)။

မိမိကျောင်းနှင့်ကပ်လျက်တည်ရှိနေသော မြင်ထင်ကျောင်းဘုန်းကြီးဦးဓမ္မ(ဦးဓမ္မသာရ)ထံတော်၌ စာလိုက်ရန် ကိုယ်တိုင်လိုက်ပါအပ်နှံပေးတော်မူပါသည်။

မြင်ထင်တိုက်သည် ဖျောက်ဆိပ်ပင်ကျောင်း၏မြောက်ဘက်တွင်ရှိ၏။ မြင်ထင်တိုက်၏ အရှေ့ဘက်အထွက်၌ ရွှေပေါက်ထောင်ဘုရားနှင့် ရေးကတည်ထားခဲ့သော ဖိုးသာယာကောင်းမှု ဘုရားတစ်ဆူ၊ ဖျောက်ဆိပ်ကျောင်းသိမ်၊ သပိတ်ဆေးကန်တို့ တည်ရှိလေသည်။ မြင်ထင် ကျောင်းအတွင်း၌ လူနှစ်ဖက်မက ရောမမန်ကျည်းပင်ကြီးများ ပေါက်ရောက်နေပြီး အရိပ်လည်းရ လုလည်းလု၍ ကျောင်းဝင်းကြီးနှင့် ပဏာတင့်လှပေသည်။

**စာသင်ဖက်မိတ်ဆွေများ**

ဖျောက်ဆိပ်ပင်ကျောင်းနှင့် မြင်ထင်ကျောင်းတိုက်တို့တွင် ရှင်ဉာဏ စာသင်နေစဉ်အခါက စာသင်ဖက်မိတ်ဆွေကိုရင်နှစ်ပါးရှိခဲ့သည်။ တစ်ပါးမှာ ရှင်ကေသရ *၁ ဟုဘွဲ့အမည်ရပြီး စိုင်ပြင် တောင်ရွာသားဖြစ်၏။ ဖွဲ့လုံ့လကြီးမား၍ ရှင်ဉာဏကဲ့သို့ပင် ဉာဏ်ထက်သောရှင်ကျော်တစ်ပါး ဖြစ်သည်။ ရှင်ဉာဏနှင့်သက်တူရွယ်တူဖြစ်၏။ ကျန်ကိုရင်တစ်ပါးမှာ ရှင်နေမိန္ဒရ *၂ ဟု ဘွဲ့မည် ရ၏။ စိုင်ပြင်တောင်ရွာသားပင်ဖြစ်၏။ ရုပ်ဆင်းတင့်တယ်၍ ဉာဏ်ပညာအထူးကောင်းမွန်က စာတော်ကိုရင်ဟုကျော်ကြားသည်။ ထိုနှစ်ပါးတွင် ရှင်နေမိန္ဒရသည် စိတ်ထက်မြက်သူဖြစ်ပြီး ရှင်ဉာဏထက် ငါးလခန့်သက်တော်ကြီးကြောင်းသိရ၏။

ထိုရှင်ဉာဏ၊ ရှင်ကေသရနှင့် ရှင်နေမိန္ဒတို့ မိတ်ဆွေကိုရင်သုံးပါးသည် မြင်ထင်ကျောင်းတိုက် အတွင်းရှိ မန်ကျည်းပင်ကြီးအောက်၌ စာအတူကျက်ကြ၊ စာအတူအံကြ၊ စာအတူရေးကြ ခြင်းဖြင့် အလွန်ချစ်ကျွမ်းဝင်သော စာသင်ဖက်စာတော်ကိုရင်ကလေးသုံးပါးအဖြစ် စိုင်ပြင်ရွာ ကြီးအတွင်း ကျော်ကြားထင်ရှားခဲ့ပါသည်။

**လောကဓံ၏ကြည့်စယ်မှု**

ရှင်ဉာဏသည် ဖျောက်ဆိပ်ပင်ကျောင်းဘုန်းကြီးဦးနန္ဒနှင့် မြင်ထင်ဘုန်းကြီးဦးဓမ္မတို့ထံ တော်ပါးတွင် သဒ္ဒါ၊ သင်္ဂြိုဟ်၊ မာတိကာ၊ ဓာတုကထာ၊ ယမိုက်၊ ပဋ္ဌာန်း-စသော ပရိယတ္တိ ဓမ္မစာပေအသီးအပွင့်တို့ကို ဆွတ်ချူစားသုံးကာ သာသနာတော်၌မွေ့လျော်ပျော်ပိုက်နေတော် မူပါသဖြင့် အသက်အရွယ်စေ့ရောက်လျှင် သာမဏေဘောင်မှတဆင့် မြင့်သည်ထက်မြင့်သော

*၁ ဤရှင်ကေသရသည် နောင်အခါ သဲဖြူလယ်တီဦးနန္ဒိယ၏ဥပဇ္ဈာယ်ဆရာဖြစ်သည်ဟု စိုင်ပြင်ရွာ ကျောင်းမကျောင်း ဆရာတော်ဦးဓမ္မပါလ (၂၂-၁၁-၁၉၉၇)ရက်နေ့တွင်အမိန့်ရှိပါသည်။

*၂ ဤရှင်နေမိန္ဒရသည် နောင်အခါ မန္တလေးမြို့၌ ပဋ္ဌမစာတော်ပြန်ပုဂ္ဂိုလ်ဖြစ်သည်။ သုဓမ္မနိပါတပါဌိတော်မြန်မာပြန် ကဝိသာရကျမ်းပြုပုဂ္ဂိုလ်ဖြစ်ပြီး၊ ဒီပဲယင်းမြို့နယ်၊ ရွာရှည်ရွာ၊ ကံဖြူတိုက်သစ်ကျောင်းဆရာတော်ဟု ထင်ရှားခဲ့၏။ မန္တလေးမြို့၌စာသင်နေစဉ်က စာတော်ပြီး ရုပ်ရည်ဥပမိထူးခြားသဖြင့် ကြည်ညိုသူများပြားခဲ့သည်။ မိဖုရားငယ်တစ်ပါးက ကတ္တီပါအိတ်ရှုံ့၌ ဒီးဖြူသီးထည့်၍ပေးခြင်းခံရသဖြင့် အကြောင်းကိုမေးရာ ဒီးဖြူသီးလိုင့်ထားမတတ်မေတ္တာသက်ဝင် သောကြောင့် ပေးခြင်းဖြစ်သည်ဟု ပြောပြကြောင်းသိရသည်။ ဤအကြောင်းကို မုံရွာမြို့၊ ရတနာပုံရပ် ဆရာဦးစိုးဂေါင် (၂၃-၄-၁၉၇၆)နေ့တွင်ပြောပြသည်။





စိုင်ပြင်ရွာရှိမူလဖျောက်ဆိပ်ပင်ကျောင်းနေရာနှင့်
ဖျောက်ဆိပ်ပင်ကြီး





စိုင်ပြင်ရွာရှိ၊ကျောင်းမကျောင်းမုခ်ဦးနှင့်ကျောင်းအနီးရေကန်ကြီး





စိုင်ပြင်ရွာ၊မြင်ထင်ကျောင်းမုခ်ဦးနှင့်
ကျောင်းအတွင်းရှုခင်း

ရဟန်းဘောင်သို့တက်ရန်သာရှိတော့သည်ဟု မှတ်ယူရန်ဖြစ်ခဲ့သော်လည်း လောကဓံတရား၏ ကြည့်စယ်လှည့်စားမှုကြောင့် ကိုရင်ဝတ်၍သုံးနှစ်ခန့်ရှိလာသောအခါ သာသနာတော်၏ချမ်းသာသောအရိပ်အောက်မှထွက်ခွာရန် အကြောင်းတစ်ရပ်ဖန်လာလေသည်။

ကိုရင်ဉာဏတို့အိမ်ထောင်စုတွင် ကိုရင်ဉာဏမွေးဖွားပြီးသည့်နောက် မောင်တက်စွာ၊ မောင်တက်ပွား၊ မောင်တက်ထွားဟု သားသုံးယောက်ဆက်၍ထွန်းကားခဲ့၏။ နောက်ဆုံးတွင် သမီးအငယ်ကိုပါထွန်းကားခဲ့၏။[*၁] ဤသို့မိသားစုတိုးပွားလာချိန်မှာမှ ရာသီကဖောက်ပြန် အလုပ်အကိုင်အဆင်မပြေ စီးပွားရေးလုပ်ငန်းညံ့ချိန်တို့တိုက်ဆိုင်လာသဖြင့် ခမည်းတော်ဦးထွန်းသာသည် သားကြီးဖြစ်သူကိုရင်ဉာဏကို မိမိနှင့်အတူအိမ်သို့ပြန်လည်လိုက်ပါ၍ လယ်လုပ်မှုကိစ္စကို ဆောင်ရွက်ပါရန်ပြောဆိုလေသည်။ ကိုရင်ဉာဏသည် မိဘကျေးဇူးကိုအထူးသိတတ်သောသားကောင်းသားမြတ်ပီပီ မိဘကျေးဇူးဆပ်ရန်အခွင့်ပေါ်ပြီဟူ၍ ဉပဇ္ဈာယ်ဆရာဘုန်းကြီးထံမှ ခွင့်ပန်လျက် လူဝတ်လဲကာ ခမည်းတော်နှင့်အတူအိမ်သို့ပြန်လိုက်ခဲ့လေ၏။[*၂]

---

*၁ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ မွေးချင်းမောင်နှမများအကြောင်းကို နောက်ဆက်တွဲ(၅)၌ရှုပါရန်။ ဆရာတော်ကြီး၏ညီမကို အချို့က'မမြလေး'၊ 'မမလေး'ဟုခေါ်ကြောင်း ရေးသားကြသည်။ မုံရွာမြို့ လယ်တီဆရာတော်ဘုရားကြီး ထေရုပ္ပတ္တိအကျဉ်းချုပ်။ လယ်တီဆရာတော်၏ ဝိဇ္ဇာမဂ္ဂဒီပနီကျမ်း(လယ်တီဒီပနီဝိသောဓကမှ)။ မြန်မာပြည်စာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၈၅–ခုနှစ်။ (စာမျက်နှာ–ဓ)။ ထိုဒေါ်မြလေးသည် ငယ်ရွယ်စဉ်မှာပင်ကွယ်လွန်ခဲ့ပြီး အိမ်ထောင်မပြုလိုက်ရဟုလည်းရေးကြသည်။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးက ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏တူတော်အရင်းဖြစ်သော ရဟန်းတော်အရှင်သုမင်္ဂလန္ဒီးဆော်တိုက်တွန်း၍ အလင်္ကာနှင့်ဆန်းနိဿယချုနက်ကျမ်းနှစ်စောင်ကို ရေးရကြောင်း ရေးသားဖူးသည်။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ အလင်္ကာနိဿယနှင့်ဆန်းနိဿယချုနက်။ သစ္စဝါဒီသတင်းစာတိုက်၊ ရန်ကုန်မြို့။ ၁၂၈၅–ခုနှစ်။ (စာမျက်နှာ–၁)။ ထိုအရှင်သုမင်္ဂလသည် လယ်တီဆရာတော်ကြီး၏ညီဦးတက်ထွားမှဖွားမြင်ကြောင်းကို စိုင်ပြင်ရွာကျောင်းမဆရာတော်ဦးဓမ္မပါလ(၂၂–၁၀–၁၉၉၇)နေ့က အမိန့်ရှိခဲ့သည်။ ဆရာတော်ဦးဓမ္မပါလထံတွင် ထိုရှင်သုမင်္ဂလပိုင်သော ပေစာနှင့်စာအုပ်များ ထိန်းသိမ်းထားကြောင်းပြောပြသည်။ သို့ပါသော် ရွှေမုံတင်ကမူ 'ပဥ္စမမြောက် အငယ်ဆုံး ဒေါ်မလေး(မမလေး)သည် (လယ်တီဦးသုမင်္ဂလသာမိ)၏မယ်တော် သာသနာ့အစ်မဖြစ်ပါသည်' ဟူ၍ ဖော်ပြထားပြန်၏။ ရွှေမုံတင်၏လယ်တီနေမင်းကျမ်း။ (စာမျက်နှာ–၆၀)လည်းရှု။

*၂ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ(စာမျက်နှာ–၁၁)၌ ရှင်လိင်ပြန်ပုံအကြောင်းကိုဖော်ပြမထားခဲ့သော်လည်း၊ (၄–၃–၁၉၇၉)နေ့က သထုံမြို့ ဆရာကြီးဦးလှတင်(ဦးဝဏ္ဏိတ)ထံ ထိုအကြောင်းကို မေးမြန်းရာ ဆရာကြီးက 'လယ်တီဆရာတော်ဘုရားကြီး ကိုရင်ဘဝက မိဘကိုထောက်ညှာပြီး ခေတ္တရှင်လိင်ပြန်ပုံ၊ ခမည်းတော်နှင့်အတူလယ်လုပ်ပုံ' တို့ကိုပြောပြပါသည်။ လယ်တီဦးကောဝိဒ(ပုပ္ပါးဦးကျော်ရင်)၏ မဟာလယ်တီထေရုပ္ပတ္တိကထာ(လက်ရေးမှု)ကိုကိုးကားပြီး ဦးလှပိုင်၏လယ်တီဂန္ထဝင်များ(စာမျက်နှာ–၃၁)၌ 'အသက် ၁၈–နှစ်အရွယ် ရောက်လျှင် သာသနာတော်၌ပျော်ပိုက်ခြင်းမရှိသဖြင့် လူဝတ်လဲလိုက်လေ၏။ ပိဋကတ်ပညာသင်ကြားနေရာ အသစ်အဆန်း မတွေ့ရတော့၍ လူဝတ်လဲသည်ဟုအဆိုရှိသည်'ဟုဖော်ပြထားသည်။ မညိုညိုစိုး၏ လယ်တီဆရာတော်ကြီး၏ ဘဝနှင့်စာပေ။ (မဟာဝိဇ္ဇာဘွဲ့ယူကျမ်း)။ (စာမျက်နှာ–၄)၌မူ– 'ရှင်ဉာဏသည် သင်ရိုးစာသင်ယူရန်ကုန်သည့်အတွက် ငြီးငွေ့ပြီး လူထွက်ခဲ့ကြောင်း' စသည်ဖြင့်ဖော်ပြထား၏။ အကယ်၍ မညိုညိုစိုးတင်ပြသည့်အတိုင်း 'သင်ရိုးစာကုန်သဖြင့် သာသနာ့ဘောင်၌နေရန် ငြီးငွေ့သည်'ဟုဆိုရာတွင်– ရှေးမြန်မာဘုရင်များလက်ထက်အခါက ပညာရှိရွေးရာတွင် စာတော်ပြန်ပွဲကျင်းပကာ မေးသင့်သည်ကို မေး၍ဖြေဆိုစေပြီး အတော်ဆုံးပုဂ္ဂိုလ်ကို ပထမကျော်အဖြစ်ရွေးထုတ်ခဲ့ခြင်းဖြစ်ရာ၊ ထိုပထမကျော် စာတော်မေးပွဲအတွက် ပြဋ္ဌာန်းထားသောသင်ရိုးစာများလေ့ကျက်ရန် ကုန်ခြင်းမျိုးသာဖြစ်ပေလိမ့်မည်။ မြကေတု၏ ရှေးခေတ် ပညာရှိရွေးပွဲ(ဆောင်းပါး)။ နန်းမလေ့မှတ်တမ်းများ။ နလုံးလှစာပေတိုက်၊ ရန်ကုန်မြို့။ ၁၉၆၆–ခုနှစ်။ (စာမျက်နှာ–၁၁၃)။ သာသနာတော်နှင့်စပ်၍ကား နိကာယ်ငါးရပ်ပိဋကတ်သုံးပုံတို့သည် သင်ယူ၍ကုန်နိုင်ဖွယ်ရှိမည်မထင်ပါ။

**အပင်ပန်းဆုံးအသက်မွေးမှု**

ရှေးအခါက တစ်မြို့နှင့်တစ်မြို့ တစ်နယ်နှင့်တစ်နယ်သို့ကုန်စည်ကူးသန်းရောင်းဝယ်သော ကုန်သည်အလုပ်ကို ဥစ္စာရလွယ်သောအလုပ်, သက်သာလွယ်ကူစွာစီးပွားရှာရသောအလုပ်ဟု သတ်မှတ်ကြပြီးလျှင်၊ လယ်ယာလုပ်ငန်းကိုမူ ခက်ခဲပင်ပန်းကြီးစွာဖြင့်သက်မွေးဝမ်းကြောင်းပြု ရသောအလုပ်ဟု ခေါ်ဆိုခဲ့ကြလေသည်။ လယ်လုပ်ငန်းသည် 'ခေါင်းမှာနေပူ၊ ခြေမှာမြေပွေး' ဆိုသည့်စကားအတိုင်း အလွန်ပင်ပန်း အလွန်အန္တရာယ်များသောအလုပ်မျိုးဖြစ်သည်။

ကိုရင်တက်ခေါင်ရှင်လိင်ပြန်ပြီးသည့်နောက် ခမည်းတော်ဦးထွန်းသာနှင့်အတူ စိုင်ပြင်ရွာ မြောက်ဘက်အရပ်ရှိ ဆန်ရုံလယ်တောကြီး*၁ သို့လိုက်ပါကာ လယ်ယာလုပ်ငန်းခွင်ဝင်ခဲ့ရသည်။ လယ်နားချိန်ရောက်သော် စိုင်ပြင်ရွာနှင့် ၁–တိုင်ခန့်ဝေးသော ရွှေတောင်မင်း ကျင်းဘက်သို့*၂ သွားကျောင်းထွက်ရသည်။ နောင်သောအခါ ခမည်းတော်နှင့်အတူ ငယ်စဉ်က လယ်ယာထွန်ယက် လုပ်ကိုင်ခဲ့ရသည့်အတွေ့အကြုံဖြစ်ရပ်တို့ကို တပည့်ဦးဝဏ္ဏိတအား စကားစပ်သောအခါ–

'တစ်နေ့တော့ လယ်တောထဲကို ခမည်းတော်ကြီးနဲ့သွားကြတာ ကန်သင်း ကျိုးပေါက်ပြီး ရေတွေလယ်ထဲဝင်နေတယ်ကွဲ့၊ ရေစီးကသန်တော့ ကန်သင်းကိုဖို့လို့ မရနိုင်ဘူးကွဲ့။ အဲဒီအခါ ကန်သင်းတစ်ဖက်ကနေ ငါက ကိုယ်လုံးနဲ့လှဲပြီးခံထားရ တယ်၊ ပြီးမှကန်သင်းကိုဖို့စေရတယ်ကွဲ့ မောင်ဝဏ္ဏိတရဲ့'ဟုအမိန့်ရှိတော်မူပါသည်။*၃

**သာသနာ့ဘောင်သို့ ဒုတိယအကြိမ်ဝင်ရောက်တော်မူခြင်း**

'မောင်တက်ခေါင်တစ်ယောက် ဖခင်ဖြစ်သူဦးထွန်းသာနှင့်အတူ လယ်ယာလုပ်ငန်းတွင် ပင်ပန်းကြီးစွာလုပ်ကိုင်နေရသည်'ဟူသောသတင်းစကားကို ဖျောက်ဆိပ်ပင်ဘုန်းကြီးဦးနန္ဒ ကြားသိရလျှင် အလွန်စိတ်ထိခိုက်လျက် မိမိတပည့်အား လောကီဝဋ်ကြောင်ဒုက္ခမှကင်းလွတ် စေရေးအတွက် အကြံအစည်ပြုနေတော်မူပါသည်။

စိုင်ပြင်ရွာအလှူပွဲတစ်ခုတွင် ဖျောက်ဆိပ်ပင်ကျောင်းဘုန်းကြီးဦးနန္ဒသည် မြင်ထင်တိုက် ဘုန်းကြီးဦးဓမ္မနှင့်ဆုံဆည်းမိရာ၊ ဘုန်းကြီးဦးနန္ဒက မောင်တက်ခေါင်၏ဆင်းရဲဒုက္ခရောက်နေပုံ တို့ကိုပြောကြားပြီး မြင်ထင်တိုက်ဘုန်းကြီးအား 'တက်ခေါင်ရဲ့ပညာတွေဟာ နမျောစရာအလွန် ကောင်းပါတယ်၊ တက်ခေါင် သင်္ကန်းပြန်ဆည်းခွင့်ရအောင် ဘုန်းကြီးကြံစမ်းပါ'ဟူ၍ ဘုန်းကြီး ဦးဓမ္မကို တိုက်တွန်းတာဝန်ပေးလေသည်။ မြင်ထင်တိုက်ဘုန်းကြီးကလည်း ရှင်ဉာဏအပေါ် မေတ္တာသက်ဝင်ကရုဏာရှိပြီးဖြစ်သည့်အတိုင်း 'ထိုကိုရင်ဉာဏ သာသနာ့ဘောင်သို့ပြန်လည် ရောက်ရှိရန်ကိစ္စကို တပည့်တော်တာဝန်ထားပါဘုရား'ဟု ဝမ်းမြောက်ဝမ်းသာ ကတိပေး လျှောက်ထားခဲ့လေသည်။

---

*၁ စိုင်ပြင်ရွာ၏ အနောက်မြောက်ဘက်တွင်ရှိသည်။ 'ထရုံတော'–ဟုလည်း ခေါ်ကြသည်။

*၂ စိုင်ပြင်ရွာ၏မြောက်ဘက် ၁–မိုင်အကွာခန့်တွင်ရှိသည်။ ထိုကွင်း၌ မြေပဲ, နှမ်းစသည် စိုက်ကြသည်။

*၃ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ) (၄–၃–၁၉၇၉)နေ့တွင်ပြောပြချက်ဖြစ်ပါသည်။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၃၁)။

ထိုအလှူပွဲပြီးသည့်နောက် တစ်နေ့သော် မြင်ထင်ဘုန်းကြီးဦးဓမ္မသည် မောင်တက်ခေါင်ကို အခေါ်လွှတ်လိုက်ရာ မောင်တက်ခေါင်ရောက်လာလျှင် မြင်ထင်ဘုန်းကြီးက ဖျောက်ဆိတ်ပင် ဘုန်းကြီးဦးနန္ဒ၏ဆန္ဒကိုရှင်းပြတော်မူသည်။ ထိုအခါ မောင်တက်ခေါင်က ဖခင်ကြီး၏စီးပွားရေး လုပ်ငန်းအရပ်ရပ်တို့ကြောင့် မိမိသက်နှုန်းပြန်ဝတ်ဖို့အရေးခက်ခဲနေပါကြောင်း လျှောက်ထား လေသည်။ ထိုအခါ မြင်ထင်ဘုန်းကြီးက 'မင်းပုံပန်းနဲ့ ပင်ပင်ပန်းပန်းဆင်းဆင်းရဲရဲ လယ်လုပ် နေတာ မတော်ပါဘူးတပည့်ရယ်၊ ပညာတစ်ခုခုနဲ့အသက်မွေးလို့ရမယ့်အလုပ်ကိုရှာပါလား၊ မင်း ဗေဒင်ပညာများမသင်ချင်ဘူးလား'ဟုပြောဆိုမေးမြန်းရာ မောင်တက်ခေါင်က 'သင်ယူခွင့်ရလျှင် သင်ယူလိုကြောင်း' လျှောက်ထားလေ၏။

မြင်ထင်ဘုန်းကြီးဦးဓမ္မက စိုင်ပြင်ရွာ၏တောင်ဘက်(ရှေးအခေါ်) ၁–တိုင်ကျော်ကျော် (ခေတ် ၃–မိုင်)ခန့်ဝေးသော ရဲထွက်[*၁] ရွာတွင် မိမိမိတ်ဆွေ ပိတောက်ပင်တောရကျောင်းဘုန်းကြီး ဦးဂန္ဓမာ သီတင်းသုံးနေကြောင်း၊ ထိုဘုန်းကြီးဦးဂန္ဓမာသည် ဗေဒင်အကျော်ဖြစ်ကြောင်း၊ မောင် တက်ခေါင်အနေဖြင့် ဗေဒင်ပညာသင်လိုသည်ဆိုပါက ထိုဘုန်းကြီးဦးဂန္ဓမာထံသို့ ဗေဒင်ပညာ သွားရောက်သင်ကြားနိုင်ရန် စီမံပေးမည်ဖြစ်ကြောင်း မိန့်ဆိုတော်မူပါသည်။

အဋ္ဌကထာကျမ်းပြုအရှင်မဟာဗုဒ္ဓဃောသ ငယ်စဉ်အခါ ပိဋကတ်သုံးပုံကိုသင်ယူလို၍ အရှင် ရေဝတမထေရ်ထံ ခွင့်တောင်းသောအခါ အရှင်ရေဝတမဟာထေရ်က–'သော ဗုဒ္ဓမန္တော ဒါနာမ မာဒိသေန ပဗ္ဗဇိတေန သိက္ခိတဗ္ဗော–ထိုမြတ်စွာဘုရားဗေဒင်မည်သည်ကို ငါနှင့်တူသောရဟန်း ဖြစ်သူကိုသာ သင်အပ်၏'ဟု[*၂] မိန့်ကြားပြီး ရှင်မဟာဗုဒ္ဓဃောသလောင်းလျာသတို့သားအား သာသနာ့ဘောင်သို့ဝင်ရောက်ကာ ရဟန်းပြုစေပြီးမှ သင်ယူလိုသောပညာကိုသင်ကြားပေး သကဲ့သို့ မြင်ထင်ဘုန်းကြီးဦးဓမ္မကလည်း မောင်တက်ခေါင်အား 'ဦးဂန္ဓမာသည် ဘုန်းတော်ကြီး ဖြစ်နေသည့်အတွက် မင်းလည်းသင်္ကန်းဝတ်မှသင့်ပေမည်၊ သို့မဟုတ်ပါက ဆရာဝတ်တပည့်ဝတ် အတုံ့အလှည့်ပြုကြရာတွင် အဆင်မပြေမညီမညွတ်ဖြစ်နိုင်သည်'ဟု ပရိယာယ်ဖြင့်မိန့်တော်မူသော ကြောင့် မောင်တက်ခေါင်သည် ခြောက်လခန့်လူဝတ်ဖြင့်နေပြီးသည့်နောက် ဗေဒင်ပညာသင်လို သောဆန္ဒဖြင့် သက္ကရာဇ် ၁၂၂၇(အေဒီ–၁၈၆၅)ခုနှစ်တွင် သာသနာ့ဘောင်သို့တဖန်ပြန်ဝင်ခဲ့၍ ရှင်ဉာဏအဖြစ်သို့ရောက်ရှိပြန်လေသည်။[*၃]

---

*၁ 'ရဲထွက်ရွာ၊ ဝဲထွက်ရွာ'ဟုလည်းရေးကြ၏။ ရဲထွက်ရွာသည် ယခုအခါ စစ်ကိုင်းတိုင်း ဘုတလင်မြို့နယ်တွင်ပါဝင်သော ကျေးရွာအုပ်စုတစ်ခုဖြစ်ပြီး ဘုတလင်–ရေဦးကားလမ်းပေါ်တွင်တည်ရှိသည်။ ရဲထွက်ကျေးရွာအုပ်စုအတွင်း ရဲထွက်၊ ကင်း၊ အိုင်ရှည်–ဟူ၍ ကျေးရွာသုံးရွာရှိပါသည်။ ပြည်ထဲရေးဝန်ကြီးဌာန၊ စစ်ကိုင်းတိုင်း။ ၂၀၀၃–ခုနှစ်။ (စာမျက်နှာ–၈၇)။

*၂ အရှင်ကေလာသ(တည်း)၏ မဟာဝံသပါဠိ (၃၇။ ဂါထာ–၂၂၁၊ ၂၂၂၊ ၂၂၃)၊ ပထမတွဲ။ တိ=နိဉပဋ္ဌာကအဖွဲ့၊ ရန်ကုန်မြို့။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၂၄၃)။

*၃ 'လူဝတ်နှင့်ခြောက်လခန့်ကြာခဲ့သည်'ဟု လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၃၅)၌ပြထား၏။

**ဗေဒင်ပညာသင်ယူခြင်း**

ရဲထွက်ရွာသည် စိုင်ပြင်ရွာ၏တောင်ဘက်တွင်တည်ရှိ၏။ ထိုရွာသည် စိုင်ပြင်ရွာလောက် မကြီးလှ။ ရဲထွက်ရွာသူရွာသားများသည် ရှေးအစဉ်အဆက်ကပင် အိုးလုပ်ငန်းကို လုပ်ကိုင်ခဲ့ကြ၏။*၁ ရဲထွက်ရွာအဝင်၌ ရွှေဥမင်စေတီတော်ကြီးတည်ရှိပြီး၊ ရှေးခေတ်အဆက်ဆက်က တည်ခဲ့သော ဘုရားပုထိုးကျောင်းကန်ပေါ်များကာ လူနေအိမ်ခြေမှာနည်းပါး၏၊ ရဲထွက်ရွာအရှေ့ဘက် ပိတောက်ပင်တောရကြီးအတွင်း ဘုန်းကြီးဦးဂန္ဓမာ၏ရွှေကျောင်းကြီးတည်ရှိပြီး၊ ရွာ၏တောင်ဘက်တွင် သာသနာပိုင်ဆရာတော်ကြီးဦးဥေယျ ကမ္ပည်းတင်ထားသော အောင်မြေဘုံစံကျောင်း(ရေဝန်းကြီးကျောင်း)တည်ရှိသည်။

ရဲထွက်ရွာအတွင်း ဘုန်းတော်ကြီးဦးဂန္ဓမာ သီတင်းသုံးတော်မူသော ပိတောက်ပင်တောရ ရွှေကျောင်းကြီး*၂ အတွင်း၌ ကြာမျိုးငါးပါးနှင့်ပြည့်စုံသော ရေကန်ကြီးနှင့် ရှေးအဆက်ဆက်က တည်ထားခဲ့သောဘုရားပုထိုးစေတီများ၊ ဆင်းတုတော်ကြီးများရှိ၏။ကျောင်း၏ အနောက်ဘက်၌ ဘုရားတိုက်အုတ်ပြာသာဒ်တစ်ဆောင်နှင့် အရှေ့ဘက်၌ အသားကျောင်းကြီး တစ်ကျောင်းရှိလေရာ ထိုကျောင်းကြီး၌ ရှင်ဉာဏနေထိုင်ခဲ့ရသည်။

ဘုန်းကြီးဦးဂန္ဓမာသည် ရှင်ဉာဏ၏ဉာဏ်ထက်မြက်ထူးချွန်ပုံ၊ မွေးဖွားစဉ်ကပင် အတိတ်ထူး နိမိတ်ထူးတို့ဖြင့်မွေးဖွားခဲ့ပုံတို့ကိုသိပြီးဖြစ်ရာ ရှင်ဉာဏသင်ယူလိုသောဗေဒင်ပညာကို အထူး တလည်ဂရုစိုက်၍ သင်ကြားပေးတော်မူသည်။ အရှင်ဉာဏကလည်း ဗေဒင်ပညာကိုအထူးကြိုးစား အားထုတ်သင်ယူခဲ့သည်။

ရဲထွက်ရွာရှိ ဦးဂန္ဓမာကျောင်း၌ 'သုံးပါးမြတ်စွာ၊ ရတနာမျိုး၊ မြတ်ထီးမိုးလျက်၊ လက်ရိုးဖြန့်ချိ လွယ်ကူသိစိမ့်၊ သုဗိဓာတ်,ဗိုလ်၊ ဆိုပိမ့်မှတ်နာ၊ ကောဇာဒီဃတ်၊ အင်္ဂနောသတ်နုတ်' အစချီသော ကျည်းကန်ကိုရင်ကြီးရှင်နန္ဒမေဓ(အေဒီ ၁၇၅၇–၁၈၁၃)၏ ကျည်းကန်လက်ရိုးလင်္ကာကျမ်း*၃ တစ်စောင်လုံးကို နှုတ်ငုံဆောင်ပြီးလျှင် မကာရန္တ တွက်ရိုးကိုတွက်ခဲ့ပါသည်။ မကာရန္တ ဇာတာကို ဖွဲ့နိုင်သည်အထိ သင်ယူတော်မူခဲ့ပါသည်။*၄

---

*၁ J.P. Hardiman' Lower Chindwin District Gazetteer, Vol. A. reprint. 1967. Page-213.

*၂ ပိတောက်ပင်ကျောင်းကို ယခုအခါ ရွှေကျောင်း(ရွှေသုဝဏ်ကျောင်း)ဟုခေါ်၏။ ဆရာတော်ဦးဂန္ဓမာ ပျံလွန်သည့်နောက် ဒုတိယဆရာတော်ဦးကဝိရ(သက်တော် ၈၅–နှစ်၌ပျံလွန်)၊ တတိယဆရာတော်ဦးတေဇဝန္တ တို့ ဆက်ခံသီတင်းသုံးတော်မူကြ၏။

*၃ ကျည်းကန်တွက်ရိုးလင်္ကာ။ မြန်မာ့ဝံသပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၂၆–ခုနှစ်။ (စာမျက်နှာ–၁၁)။

*၄ ထိုအချိန်က မကာရန္တ တွက်ရိုးသည် ခေတ်မကုန်သေး။ သံဒိဋ္ဌတွက်နည်းမှာလည်း စမ်းသပ်နေဆဲအခါဖြစ်၍ ဗေဒင်ပညာအခြေပျိုးသင်ယူလိုသူတို့ကို မူလတွက်ရိုးပညာဖြစ်သော မကာရန္တ ကိုသာ သင်ကြားပေးခြင်းဖြစ်ပေလိမ့်မည်။ သက္ကရာဇ် ၁၂၃၀–ပြည့်နှစ်သို့ရောက်မှ မကာရန္တ တွက်ရိုးကိုပစ်ပယ်ခဲ့ကြောင်းသိရသည်။ ဦးသန်းမောင်၏ ရှေ့ပြေးပြိုဟ်သွားပြက္ခဒိန် ကောက်နည်း။ ပညာ့အလင်းပြပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၀–ပြည့်နှစ်။ (စာမျက်နှာ–၁၉၁)။ မကာရန္တ တွက်နည်းသည် သက္ကရာဇ် ၁၃၀၀–ပြည့်နှစ်နောက်ပိုင်းသို့ရောက်မှ ဆိတ်သုဉ်းကွယ်ပျောက်ခဲ့ရသည်။ တင်မမခိုင်၏ မြန်မာ့ဇာတာ။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၁၉၈၈–ခုနှစ်။ (စာမျက်နှာ–၁၃၂)။

နောင်သောအခါ၌ လယ်တီဆရာတော်ကြီးက မိမိငယ်စဉ်ကသင်ယူခဲ့သော ဗေဒင်ပညာအကြောင်းနှင့်စပ်၍ တပည့်ဦးဝဏ္ဏိတအား–

'ကျည်းကန်ကိုရင်ကြီးလက်ာတွေကိုနည်းယူပြီး ဗိုလ်,သုဗိတာတ်၊ ပဋ္ဌတားနာရီ၊ ဇာတာဘွဲ့၊သင်္ကြန်တွက်၊ လက်ရိုးလင်္ကာတွေကိုပါ ရေးနိုင်တဲ့အထိသင်ခဲ့တယ်ကွဲ့'[*၁] ဟု မိန့်တော်မူခဲ့ပါသည်။[*၂]

## ကဗျာလင်္ကာဖွဲ့ဆိုခြင်း

ဗေဒင်ပညာနှင့် ကဗျာလင်္ကာဖွဲ့ဆိုခြင်းအတတ်သည် အဆက်အစပ်ရှိလေသည်။ အကြောင်းမှာ ဗေဒင်ပညာသင်ယူသူသည် ဗေဒင်ပညာဆိုင်ရာသံပေါက်လင်္ကာတေးထပ်စသည်တို့ကို နှုတ်လွတ်အာဂုံ ကျက်မှတ်ကြရသည်။ ထိုသို့ သံပေါက်လင်္ကာတို့ကို အဖန်ဖန်အထပ်ထပ် နှုတ်လွတ်ရအောင်ကျက်မှတ်ရာမှ သံပေါက်လင်္ကာ စသော ကဗျာစပ်နည်းတို့ကိုပါ တီးမိခေါက်မိ သဘောပေါက်လာလေသည်။ ဤသို့ ကဗျာစပ်နည်းကိုသဘောပေါက်လာပြီး မကြာမြင့်မီမှာပင် အရှင်ဉာဏသည် ကဗျာလင်္ကာမတောက်တခေါက် စမ်းသပ်ဖွဲ့ဆိုတော့သည်။

ဘုန်းကြီးဦးဂန္ဓမာက ရှင်ဉာဏအား ဗေဒင်ပညာကိုသာမက ကဗျာလင်္ကာစပ်ဆိုနည်းကိုပါ ညွှန်ပြတော်မူခဲ့ပါသည်။ ရှင်ဉာဏသည် ကဗျာလင်္ကာဖွဲ့နည်းသင်ယူပြီးသည့်အခါ ကဗျာမျက်လုံးရှိသူပီပီ ပတ်ဝန်းကျင်ကို စာဖွဲ့ရန်ကြည့်တတ်မြင်တတ်လာသည်။ မြင်သမျှကိုလည်း လင်္ကာကဗျာဖွဲ့ဆိုပါသည်။ 'တိမ်တိုက်မိုးပြင်၊ ထက်ကောင်းကင်၌၊ ငှက်တွင်ကြီးခြင်း၊ ခွန်အားပြင်းသား၊ ငှက်မင်းမြတ်စွာ၊ ဂဠုန်သာလျှင်၊ ပျံရှာသလော၊ ယပ်မောစွာလျက်၊ နံ့စုတ်ငှက်သည်၊ အထက်လေကြောင်း၊ ပျံပါကောင်း၏'ဟူသော အရှင်တေဇောသာရ၏ ပြာဒိုဟာခန်းပျို့[*၃] လာ ဥပမာအတိုင်း ခွန်အားကြီးမားသောဂဠုန်ငှက်ကြီးများနှင့်တူသော စာဆိုပညာရှိကြီးများသာ ကဗျာဝေဟင်၌ပျံဝဲကျက်စားကြသည်မဟုတ်၊ အပျံသင်စ နံ့စုတ်ငှက်နှင့်တူသော စာဆိုရှင်ကလေး ရှင်ဉာဏသည်လည်း ကဗျာဝေဟင်၌ပျံဝဲအံ့ဟူ၍ လက်တည့်စမ်းကဗျာလင်္ကာတို့ကို စတင်ရေးဖွဲ့လေတော့သည်။ ရှင်ဉာဏ လက်တည့်စမ်းရေးစပ်သောလင်္ကာတို့တွင် ဗေဒင်ပညာဆိုင်ရာလက်ရိုးလင်္ကာများသည် ရှေးဦးလက်ရာများဖြစ်သည်။[*၄]

---

[*၁] ရှေးက ဘုန်းတော်ကြီးကျောင်းတို့တွင် သာသနာမှုဆိုင်ရာပရိယတ်စာပေကိုသာမက သာသနာ့ဘောင်၌ ဆက်လက်မွေ့လျော်မနေလိုတော့သော စာသင်သားတို့အတွက် ဗိုလ်လင်္ကာ ဗိုလ်ပြေး၏ ဂြိုဟ်သွားဂြိုဟ်လာစသော နက္ခတ်ဗေဒင်၊ သူရိယသိဒ္ဓန္တ ကျမ်းတို့ကို အဆင့်မြင့်သင်္ချာဘာသာရပ်အနေဖြင့်သင်ကြားပေးသည်။ ပညာမင်းကြီးဦးကောင်း၏ မြန်မာနိုင်ငံပညာရေးသမိုင်း။ မြသီတာစာပေ၊ ရန်ကုန်မြို့။ ၁၉၉၅–ခုနှစ်။ (စာမျက်နှာ–၅၅)။

[*၂] လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၀)။

[*၃] ရှင်ဟောဇောသာရ၏ ပြာဒိုဟာခန်းပျို့၊ (အပိုဒ်–ခ)။ ဟံသာဝတီသတင်းစာတိုက်၊ ရန်ကုန်မြို့။ ၁၉၂၉–ခုနှစ်။ (စာမျက်နှာ–၇၁)။

[*၄] လယ်တီဆရာတော်ကြီးငယ်စဉ်က ရေးဖွဲ့တော်မူခဲ့သည်ဟု အမှတ်အသားရှိသော ထိုဗေဒင်ပညာဆိုင်ရာလင်္ကာများကို မတွေ့ဘူးပါ။

**ကျေးစေရတုများ**

ရှင်ဥတ္တမသည် ဗေဒင်ဆိုင်ရာကဗျာလင်္ကာများကိုဖွဲ့ဆိုပြီးသည့်နောက် ကဆုန်လသို့ ရောက်သော် ပိတောက်ပင်တောရကြီးအတွင်း ပေါက်ခါစကျေးငှက်ငယ်ကလေးများ*[၁] တစ်ပင်မှ တစ်ပင်သို့ကူး၍ အပျံသင်သည်ကို မြင်တွေ့သောအခါ ထိုကျေးငှက်လေးများနည်းတူ မိမိသည် လည်း မိဝေးဘက္ကာ တစ်ကျောင်းတစ်နေရာသို့ ရောက်ခိုက်ဖြစ်၍ ထိုကျေးငှက်တို့မှတစ်ဆင့် မိဘရပ်ဌာန်သို့ အမှာစေဟန် ကျေးစေရတုကဗျာကို ရှေးစာဆိုကျော်များကဲ့သို့ စမ်းသပ်ဖွဲ့ဆိုခဲ့လေ သည်။

ဇာတ်ကြီးဆယ်ဘွဲ့အဝင် မဟော်သဓာဇာတ်တော်ကြီးတွင် မဟော်သဓာသုခမိန်က မိမိ မွေးထားသောကျေးသားကို စူဠနီပြဟ္မဒတ်မင်းထံအစုံစမ်းလွှတ်လိုက်ရာတွင် ထိုကျေးသားသည် ဇာတ်နာသူတို့အဖို့ စိတ်ဝင်စားဖွယ်နှစ်သက်ဖွယ် သရုပ်ဆောင်ကျေးသားဖြစ်လေသည်။မဟော်သဓာ ဇာတ်လာ မဟော်သဓာသုခမိန်၏ ကျေးစေမှာကြားပြောဆိုဟန်ပန်တို့ကိုအတုယူကာ စာဆိုတို့ သည်လည်း ကျေးစေခန်းရတုစာပေများစွာကိုရေးဖွဲ့ကြသည်။

မြန်မာစာပေလောက၌ ရှေးအကျဆုံးကျေးစေရတုကား အင်းဝခေတ် ပထမဘုရင် မင်းခေါင်ကြီး၏ ကျေးစေရတုဖြစ်သည်။ ထို့နောက် တောင်ငူခေတ်၌ နဝဒေး၊ နတ်သျှင်နောင်၊ ဇင်းမယ်ဘုရင်၊ ဇင်းမယ်မိဖုရား၊ ဇင်းမယ်ဘုရင်ငယ်၊ ပဲခူးမိဖုရား၊ ဥက္ကာပျံ၊ ရှင်သံခို-စသည်၊ ကုန်းဘောင်ခေတ်၌ စိန္တကျော်သူဦးဩ၊ လက်ဝဲသုန္ဒရ၊ မုံရွေးဆရာတော်၊ ဦးတိုးစသည်ဖြင့် စာဆိုများစွာတို့ ကျေးစေရတုများရေးဖွဲ့ကြသည်။*[၂]

အရှင်ဥတ္တမသည်လည်း မဟော်သဓာဇာတ်တော်လာ မဟော်ကျေးစေခန်းကိုယူ၍ ရတုကဗျာဖွဲ့ဆိုခဲ့လေသည်။*[၃] အရှင်ဥတ္တမရေးသားစီကုံးသော မဟော်ကျေးစေခန်းရတုကဗျာ များသည် ဖွဲ့စပ်စီကုံးပုံကျနစကားအသုံးအနှုန်းကျစ်လစ်၍ ခန့်ညားလေးနက်ပြောင်မြောက် လှသည်။ ဗေဒင်နက္ခတ်သင်ဆဲကာလဖြစ်၍ ထိုဗေဒင်ဘာသာရပ်ဆိုင်ရာဝေါဟာရများကိုလည်း ထည့်၍ဖွဲ့ဆိုခဲ့၏။ စကားလုံးဝေါဟာရသုံးစွဲရာ၌ ဂုဏ်မြောက်ပုံမှာကား အရွယ်နှင့်မမျှအောင်ရှိပေ၍ ထူးကဲလှသောကဗျာ့ဉာဏ်-ဟုဆိုရပေမည်။

---

*[၁] (၁) ဖောင်ကား၊ (၂) ကျေးတမာ၊ (၃) ကျေးသန္တာ၊ (၄) ကျေးဝါ၊ (၅) ကျေးကျွတ်၊ (၆) ကျေးကုလား၊ (၇) ကုလားမ ကြက်တူရွေး-ဟူ၍ ကျေးခုနစ်မျိုးရှိသည်။ မဟာဓမ္မသင်္ကြံ၏ ဝေါဟာရလီနတ္ထဒီပနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၃-ခုနှစ်။ (စာမျက်နှာ-၁၄၆)။

*[၂] အချို့သောစာဆိုတို့ကမူ ကျေးစေမေတ္တာစာ၊ ကျေးစေရကန်၊ ကျေးစေအဲ၊ ကျေးစေအိုင်-တို့ကိုရေးဖွဲ့ကြပြီး၊ အချို့ သောစာဆိုတို့ကမူ ကျေးနေရာတွင် သာလိကာစေရတု၊ တမ္ဘေစေရတု-တို့ကိုလည်း ရေးဖွဲ့ကြပြန်သည်။ ကြူရတနာ မောင်မြကြိုင်၏ ကျေးစေရတုမှတစ်ဆင့်(ဆောင်းပါး)။ ငွေတာရီမဂ္ဂဇင်း၊ အမှတ်-၂၀၅။ (စာမျက်နှာ ၂၈-၃၁)။

*[၃] လယ်တီဆရာတော်ကြီးငယ်စဉ်ကဖွဲ့ဆိုခဲ့သော မဟော်ကျေးစေခန်းရတု ၂၅-ပုဒ်တို့ကို လယ်ဘီဆရာတော်၏ လယ်တီ ဝိနိစ္ဆယသူစိကျမ်း၊ ပထမတွဲ။ ဂုဏဝတီပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၂၈၅-ခုနှစ်။ (စာမျက်နှာ-၂၉၃)စသည်နှင့် လယ်တီဝိနိစ္ဆယသူစိကျမ်း။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ-၁၉၇)စသည်တို့တွင်ဖော်ပြထားပါသည်။

## သျှိုးလိုက်ရတု*[၁]

ရှင်ဉာဏသည် ရတုကဗျာတို့ကိုရေးဖွဲ့ရာတွင် ထိုခေတ်က ဒီပဲယင်းနယ်တစ်ဝိုက်၌ အလွန်နာမည်ကျော်နေသော သျှိုးလိုက်ရတုတို့ကိုလည်းရေးဖွဲ့ခဲ့ပေသည်။*[၂] သျှိုးလိုက်ရတုများသည် ထီးရိပ်နန်းရိပ်ကင်းကွာ၍ ကျေးရွာစာဆိုတော်ကြီးများရေးသားစပ်ဆိုသော ကျေးလက်စာပေတစ်ခုဖြစ်ပါသည်။ ထိုရတုမျိုးကို ရွှေဘိုခရိုင် ဒီပဲယင်းနယ်အတွင်းရှိ တောလက်ကျေးရွာများတွင် အများဆုံးရေးဖွဲ့ကြပါသည်။ ဒီပဲယင်းနယ်တစ်ဝိုက်၌ရေးဖွဲ့လေ့ရှိသော သျှိုးလိုက်ရတုများမှာ ဝေဿန္တရာတောထွက်ခန်း၊ မင်းနန်ချွတ်ခန်း၊ မဟော်ကျေးစေခန်း၊ ဘုရားအလောင်းတောထွက်ခန်းစသည့် အကြောင်းအရပ်များကိုအခြေတည်၍၊ အထူးအားဖြင့် လူ့ဘောင်ကိုစွန့်ခွာ၍ သာသနာ့ဘောင်သို့ကူးဝင်အံ့ဆဲဆဲဖြစ်သော ရှင်ရဟန်းလောင်းတို့၏ခွင့်ပန်ဟန်ကိုစာဖွဲ့ထားသောရတုများပင်ဖြစ်သည်။*[၃] ရှင်လောင်းတို့ကခွင့်ပန်ဟန်စာရေးဖွဲ့ထားသောကြောင့်လည်း ဤသျှိုးလိုက်ရတုမျိုးကို 'ခွင့်တောင်းခန်းရတု'ဟု ပညာရှင်များက သတ်မှတ်ခဲ့ကြပြန်ပါသည်။*[၄] စင်စစ်ကိုရင်ဉာဏတို့ငယ်စဉ် ရှင်လောင်းလှည့်ပွဲတို့တွင် ရှင်လောင်း၏နောက်က တပျော်တပါးလိုက်ပါကြကာ သျှိုးထိုးရခြင်းမှာ အရသာတစ်ခုဖြစ်လေသည်။*[၅]

---

*[၁] သျှိုးလိုက်ရတုကို ရွှဲတိုက်ရတုဟုလည်းခေါ်ကြ၏။ 'သျှိုး'နှင့် 'ရွှဲ' အတူတူပင်ဖြစ်သည်။ မြန်မာစာအဖွဲ့၏ မြန်မာအဘိဓာန်။ ပညာရေးဝန်ကြီးဌာန၊ ရန်ကုန်မြို့။ ၁၉၉၁–ခုနှစ်။ (စာမျက်နှာ–၃၂၄)။ ဥပမာ– မြိုင်မြို့နယ်နှင့် ပုပ္ပါးနယ်တစ်ဝိုက်တွင် 'ရွှဲတိုက်' ဟုသုံးပြီး၊ မန္တလေးနှင့်မန္တလေးအထက်ပိုင်း၌ 'သျှိုးလိုက်' သည်ဟု သုံးသည်။ မောမြေမောင်ယဉ်အောင်၏ ရှင်လောင်းလှည့်သျှိုးလိုက်ရတုများ(ဆောင်းပါး)။ ငွေတာရီမဂ္ဂဇင်း၊ အမှတ်–၂၅၇။ (စာမျက်နှာ–၁၈)။ အချို့သောအရပ်ဒေသတို့၌မူ ထိုသျှိုးလိုက်ရတုကိုသီဆိုရာ၌ အအုပ်လေးချိုးတစ်ပုဒ်ဆုံးတိုင်း ကာလသားလူပျိုများက 'ရွှေ့' ဟူ၍လည်းပိုင်း၍ ဆိုကြ၏။ 'ရွှေ့'၏အဓိပ္ပာယ်ကား 'ကောင်းပြီ၊ ဟုတ်ပေပြီ' ဟုဖြစ်၍ အထက်အညာဒေသအသုံးအနှုန်းဖြစ်၏။ ဆရာဦးဆန်းထွန်း၏ ရွှေ့လိုက်ရတု(ဆောင်းပါး)။ စာပေဘဏ်။ အရဏ်ဦးစာပေ၊ရန်ကုန်မြို့။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၇၀)။ ရွှေဘိုမိမိကြီး၏ ရွှေရည်မင်းစံဆောင်းပါးများ။ လူထုစာအုပ်တိုက်၊ မန္တလေးမြို့။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၈၁)။

*[၂] လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၀)။

*[၃] ဒီပဲယင်းမြို့နယ်၊ မြသိန်းတန်ကျေးရွာ၊ ရွှေသိမ်တော်ကျောင်းအရှင်ဥတ္တရ၏ သျှိုးလိုက်ရတုများ။

*[၄] ပါဋိဆရာကြီးဆရာညွန့်၏ ခွင့်တောင်းခန်းရတု(ဆောင်းပါး)။ ဟံသာဝတီမဂ္ဂဇင်း။ ၁၉၃၆–ခုနှစ်၊ ဖေဖော်ဝါရီလ။ (စာမျက်နှာ–၂၆၉)။ ဤရတုစပ်ဟန်အသွားကို ကင်းဝန်မင်းကြီးဦးကောင်းနှင့် ဦးပုညတို့၏ ရကန်စပ်ဟန်နှင့်တူသည်ဟု ရေးကြသည်။ ဦးကျော်ထွန်း(တည်း)၏ မြန်မာစာညွန့်ပေါင်းကျမ်း၊ ဒုတိယတွဲ။ အစိုးရပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ–၂၂၃)။ ဆရာကြီးဦးသော်ဇင်ကလည်း ဤသျှိုးလိုက်ရတုကို 'ရှင်လောင်းရကန်' ဟု ခေါ်ခဲ့သည်။ ဦးသော်ဇင်၏ ရှင်လောင်းရကန်(ဆောင်းပါး)။ ငွေတာရီမဂ္ဂဇင်း၊ အမှတ်–၂၀၁။ (စာမျက်နှာ–၂၃)။ ပုဂံဝန်ထောက်ဦးတင်ကမူ ဤရှင်လောင်းလှည့်ရတုသည် လေးလုံးစပ်မဟုတ်၊ကာရန်အစောင့်မမှန်၍ ရတုဟုမဆိုနိုင်ဘဲ မှာတမ်းအဖွဲ့မျိုးသာဖြစ်ကြောင်းဖော်ပြသည်။ပုဂံဝန်ထောက်ဦးတင်၏ ကဗျာဗန္ဓသာရကျမ်း။ (စာမျက်နှာ–၄၁)။

*[၅] များသောရှင်လောင်းတို့ကို လှည်းပေါ်တင်၍လှည့်သကဲ့သို့၊ ရွှေဘိုနယ်၊ ဒီပဲယင်းနယ်တို့၌ လူလေးယောက်ထမ်း မှန်စီရွှေချ ဝေါယာဉ်ဖြင့်လှည့်သည်။ သာစည်ညောင်ရမ်းဘက်၌ လှည်းယာဉ်၊ မြင်း၊ ဆင် စသည်ဖြင့်တင်၍လှည့်သည်။ ကျော်သန်းမြင့်၏ အညာကျေးလက်ဘဝသရုပ်ဖော် ရှင်လောင်းလှည့်ရတုများ(ဆောင်းပါး)။ ငွေတာရီမဂ္ဂဇင်း၊ အမှတ်–၂၈၅။ (စာမျက်နှာ ၆၃–၆၆)။

**ဝါစ္စဝါစကအကောက်စာ**

ဘုန်းကြီးဦးဂန္ဓမာသည် ရှင်ဉာဏအား ဗေဒင်ပညာနှင့်ကဗျာလင်္ကာဖွဲ့နည်းတို့ကိုသာမက ပရိယတ္တိစာပေဆိုင်ရာသင်ရိုးစာများကိုလည်း သင်ကြားပေးခဲ့ပါသည်။ ရှင်ဉာဏသည် ပိဋက ကျမ်းစာများကိုသင်ယူရင်း စာပေဝါသနာထုံသည့်အလျောက် ထိုထိုသောပေစာများကို ရှာဖွေ ကြည့်ရှုရာမှ သဒ္ဒါဘက်ဆိုင်ရာ 'ဝါစ္စဝါစကအကောက်ဟောင်း' ပေစာတစ်စောင်ကို ကြည့်ရှု မိ၏။ ထိုအကောက်ကျမ်း၌ မသင့်မလျော် မပေါ်လွင်သောအချက်များကိုတွေ့မြင်ရသဖြင့် ဝါစ္စဝါစကအကောက်စာတစ်မျိုးကိုလည်း ရေးသားခဲ့လေသည်။*[၁]

**သာသနာ့ဘောင်မှာမွေ့လျော်မည်ဟု**

ရဲထွက်ရွာ၌ ရှင်ဉာဏပညာသင်ယူရင်း ရှစ်လခန့်ကြာလာသောအခါ*[၂] ပရိယတ်စာပေ တို့ကို သင်ယူခွင့်ရခြင်းကြောင့်လည်းကောင်း၊ ပိတောက်ပင်တောရ၌အတူနေသော သီတင်း သုံးဖော်ရဟန်းသာမဏေတို့၏ ကိလေသာငြိမ်းအေးအောင်အားထုတ်ကျင့်ကြံမှုတို့ကိုမြင်တွေ့နေ ခြင်းကြောင့်လည်းကောင်း၊ ဆိတ်ငြိမ်အေးချမ်းသောရဟန်းသာမဏေတို့၏ဘဝကို စုံမက်တွယ်တာ နှစ်သက်လာခဲ့ပေသည်။ ရှင်ဉာဏကို ရဲထွက်ရွာသို့ဗေဒင်ပညာသင်ရန် လွှတ်လိုက်စဉ်ကပင် ဘုန်းကြီးဦးနန္ဒက ဘုန်းကြီးဦးဂန္ဓမာအား ရှင်ဉာဏကို ဗေဒင်ပညာသင်ပေးရုံသာမက သာသနာ့ ဘောင်၌လည်း မွေ့လျော်အောင်ဆောင်ရွက်ပေးပါဟု မှာကြားလိုက်ပြီးဖြစ်သည်။ သို့ဖြစ်၍ ဘုန်းကြီးဦးဂန္ဓမာက စာပေတတ်သိရုံမျှနှင့် ဗုဒ္ဓရှင်တော်၏တရားအမြိုက်အရသာကို ခံစားနိုင်မည် မဟုတ်ကြောင်း ကောင်းစွာဆင်ခြင်မိသဖြင့် လက်တွေ့ကျင့်ဖွယ်ရာအကျင့်စရဏတို့ကိုလည်း ရှင်ဉာဏအား သွန်သင်ပြသပေးတော်မူလေသည်။

ရွှေကျောင်းဘုန်းကြီးဦးဂန္ဓမာသည် ထိုခေတ်ထိုအခါက ဘုတလင်ညောင်ကန်တပိုက်တွင် ဗေဒင်ပညာကိုအခေါင်ရောက်အောင်တတ်ကျွမ်းသော ညောင်ကန်ဆရာတော်ဦးသူ*[၃]၏တပည့် ဖြစ်ပြီး ဗေဒင်ပညာဘက်က ထိပ်တန်းဟုဆိုနိုင်၏။ ငယ်စဉ်က ဆရာသမားတို့သင်ပေးခဲ့၍ ပါရမီအားလျော်စွာ ဝါဝင်ဝါထွက်,လထပ်ရက်ငင်စသည်၌ ကျွမ်းကျင်လိမ္မာစေရန်ရည်သန်၍

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၇)။ လယ်တီဆရာတော်ကြီးငယ်စဉ်က ရေးသားတော်မူခဲ့သော ထိုဝါစ္စဝါစကအကောက်စာကိုလည်း မတွေ့ဘူးပါ။ ဝါစ္စဝါစကစာကိုယ်ကို ပုဂံမြို့နေ အမည်မသိ ထေရ်တစ်ပါးပြုသည်။ ဋီကာကိုကား ချောင်းကောက်အရှင်သဒ္ဓမ္မနန္ဒီပြုသည်။ ပိဋကတ်တော်သမိုင်း၊ (အပိုဒ်–၄၁၁၊ ၄၁၂၊ ၄၁၃–ကြည့်ပါ)။

*၂ ညီညီစိုး၏ လယ်တီဆရာတော်၏ဘဝနှင့်စာပေ။ (စာမျက်နှာ–၅) ၌ လယ်တီဦးကောဝိဒ(ပုပ္ပါးဦးကျော်ရင်)၏ လယ်တီမဟာထေရုပ္ပတ္တိကထာကျမ်းလက်ရေးမူကိုကိုးကား၍ 'ဗေဒင်ပညာသင်၍ ရှစ်လကြာသောအခါ ဗေဒင်လက်ရိုးနှင့် မကာရန္တ တွက်ပုံ၊ ဘုတ္တိတွက်ပုံ၊ နေသရလသရ, အာယုဒါသ–စသည်တို့ကိုပါသင်ကြားတတ်မြောက်ခဲ့ရာ မိမိရွာကျေ-င်း သို့ပြန်လာခဲ့လေသည်' ဟုဖော်ပြထား၏။

*၃ ဤဆရာတော်ဦးသူသည် ဗေဒင်အတွက်အချက်အလွန်ဝါသနာထုံ၍ ဆရာတော်ဦးဗုဓ်က 'ဂဏန်းကောင်ကြီး' ဟုပင် ကျီစယ်ကာ ခေါ်ခဲ့သည်။ ဘွဲ့မည်ရင်းမှာ 'အရှင်ဉာဏိန္ဒ'၊ မင်းလှူဘွဲ့တံဆိပ်မှာ ဉာဏိန္ဒာဘိပဏ္ဍိတပဝရမဟာဓမ္မရာဇာဓိ ရာဇဂုရု–ဖြစ်သည်။ ဦးသုဒဿန၏ညောင်ကန်သာသနာဝင်။ ၁၃၂၁–ခုနှစ်။ (စာမျက်နှာ–၂၂၉)။



ရဲထွက်ရွာ ပိတောက်ပင်တောရကျောင်း





လယ်တီဆရာတော်ကြီး၏
စာသင်ဘက်
ကံဖြူတိုက်သစ်
ဆရာတော်ဦးနေမိန္ဒရ





လယ်တီဆရာတော်ကြီးရဟန်းဖြစ်ရာ မူလသိမ်နှင့်ယခုပြုပြင်ထားသောသိမ်နှင့်စေတီပုံ

ဗေဒင်ပညာကိုသင်ယူတော်မူခဲ့ခြင်းမျှဖြစ်သည်။ သက်တော်ဝါတော်ရလာသောအခါ ဝိနည်းတော်နှင့်မလျော်၊ ဘုရားအလိုတော်နှင့်လည်းဆန့်ကျင်၊ လူတို့ကဲ့သို့လည်းစီးပွားမွေး ဆေးကုဗေဒင်ဟော ဥယျာဉ်စိုက်စသော ကုလဒူသနအနေသနတို့ကိုပယ်စွန့်၍ ဂန္ထဓုရဝိပဿနာဓုရဟူသော ဓုရနှစ်ပါး၊ ပရိယတ်ပဋိပတ်ဟူသော နှစ်ဌာနတို့ကိုသာ တစ်နေ့တစ်ပါးတိုးပွားအောင် ကြိုးဆောင်လုံ့လအားထုတ်ကာ နေထိုင်တော်မူခဲ့သည်။

အရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ် ရဟန်းဖြစ်လာရေးအတွက် အရှင်သိဂ္ဂဝနှင့် အရှင်စဏ္ဍဝဇ္ဇီတို့ ပူပန်လုံ့လကြိုးပမ်းကြသကဲ့သို့ ရှင်ဉာဏအား သာသနာ့ဘောင်၌မွေ့လျော်လာရေးအတွက် ရွှေကျောင်းဘုန်းကြီးဦးဂန္ဓမာသည် ဖျောက်ဆိပ်ပင်ဘုန်းကြီး၊ မြင်ထင်ဘုန်းကြီးတို့နှင့်အတူ ပါဝင်ရလျက် မိစ္ဆာဇီဝအမှုအဖြစ် စွန့်ပယ်ပြီးဖြစ်သောဗေဒင်ပညာကိုပင် ပြန်လည်အသုံးပြုကာ ရှင်ဉာဏအား သင်ကြားပေးခဲ့ခြင်းဖြစ်လေသည်။ ဦးဂန္ဓမာသည် ထိုအချိန်က တောရဆောက်တည်နေသော အဗ္ဗောဝါသိပုဂ္ဂိုလ်တစ်ပါးဖြစ်လေရာ၊ ရှင်ဉာဏကိုလည်း မိမိလက်ငင်းကျင့်ကြံကြိုးကုတ်အားထုတ်နေသော တောရဆောက်တည်မှုနှင့် တရားအားထုတ်နည်းတို့ကိုပါ လက်တွေ့ပြသပြီး ကျင့်သုံးစေခဲ့သည်။

ကိုရင်ကြီးရှင်ဉာဏသည်လည်း အသက်မွေးဝမ်းကြောင်းချောင်ချိရန် ဗေဒင်ပညာကိုသင်ယူဆည်းပူးရင်း ဘုန်းကြီးဦးဂန္ဓမာ၏အဆုံးအမကောင်းသောကြောင့် သက္ကရာဇ် ၁၂၂၈ (အေဒီ ၁၈၆၆–၁၈၆၇)ခုနှစ်မကူးမီတွင် 'ဘုရားတပည့်တော်သည် ယနေ့မှစ၍ ဤလောကီအသက်မွေးမှု မိစ္ဆာဇီဝမှုဖြစ်သော ဗေဒင်ပညာစသည်တို့ကို စွန့်ပစ်ပါတော့မည်ဘုရား၊ ဘုရားတပည့်တော်သည် ယနေ့မှစ၍ သာသနာ့ဘောင်၌သာ မွေ့လျော်နေပါတော့မည်ဘုရား'ဟု ဘုန်းကြီးဦးဂန္ဓမာအထံ ဝန်ခံကတိပေးတော်မူလေပြီ။

လယ်တီဆရာတော်ကြီးသည် မိမိငယ်စဉ်ကိုရင်ဘဝက ဗေဒင်အားကိုးနှင့်ထမင်းအိုးတည်တော့မည့်အဖြစ်ကိုပြန်ပြောင်းကာ တပည့်ကြီးအရှင်ပဏ္ဍိတ(လယ်တီပဏ္ဍိတ)ကိုယ်တော်အား–

'ပဏ္ဍိတရဲ့ ကံကောင်းလို့ကွဲ့၊ ငါက ဗေဒင်အားကိုးနဲ့ ထမင်းအိုးတည်တော့မလို့၊ ကံကြီးလို့သက်န်းဝတ်လာရတာကွဲ့၊ ငါ့ဆရာကြီးများ ငါ့အပေါ် အလွန်မြင်မြော်၍ ကျေးဇူးတော်ကြီးမားကြပါပေတယ်'*၁ ဟူ၍ မိန့်ကြားတော်မူခဲ့ပါသည်။

**ရဟန်းဖြစ်တော်မူခြင်း**

သက္ကရာဇ် ၁၂၂၈–ခုနှစ် (အေဒီ ၁၈၆၆–ခုနှစ်)သို့ရောက်သောအခါတွင် ရှင်ဉာဏသည် 'သန္ဓေယူလစ်၊ အနှစ် နှစ်ဆယ်၊ ပြည့်ဖြိုးကြွယ်ပြီ'ဖြစ်ရကား သုံးလောကထွတ်ထားမြတ်ဘုရား၏ 'အနုဇာနာမိ ဘိက္ခဝေ ဂဏ္ဍီသံ ဥပသမ္ပာဒေတုံ' (ဝိ၊၃။၁၂၉)ဟူသော ခွင့်ပြုမိန့်မြွက်ဗျာဒိတ်နက်ဖြင့် မြင့်မြတ်သောရဟန်းဘောင်သို့ ချီးမြှောက်ခြင်းကိုခံယူရန် အချိန်သင့်ခဲ့လေပြီ။

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထ ဝင်ကျော်များ။ (စာမျက်နှာ–၃၅)။

ထိုရောအခါ အဖွားမယ်ကတူး၊ ခမည်းတော်ဦးထွန်းသာ၊ မယ်တော်ဒေါ်ကျုံးနှင့်ဆွေမျိုးတစ်စုတို့တိုင်ပင်ကြရာတွင် ဒေါ်ကျုံး၏ ညီမဒေါ်ဖုံး*[၁] နှင့် ခင်ပွန်းသည်ဦးကံစတို့က မိမိတို့မှာ သာသနာ့အမွေခံ သားယောကျ်ားမရှိကြသည့်အတွက် အစ်မဖြစ်သူထံမှ 'တူကလေး မောင်တက်ခေါင်ကိုအကြောင်းပြု၍ သာသနာ့အမွေကို ခံယူပါရစေ၊ ရဟန်းပြုပေးခွင့်ပေးကြပါ'ဟု ရဟန်းဒကာအဖြစ်ကို တောင်းယူခဲ့ကြသည်။

သို့ဖြင့် သက္ကရာဇ် ၁၂၂၈–ခုနှစ်၊ ကဆုန်လဆန်း ၆–ရက်*[၂] (၁၈၆၆–ခုနှစ်၊ ဧပြီလ ၁၉–ရက်၊ ကြာသပတေးနေ့)တွင် စိုင်ပြင်ရွာ ကျောင်းမတိုက်ရှိ သာသနဝုမ္မိ သာသနဝေပုလ္လ သာသနသောဘိနီခဏ္ဍသိမ်တော်မြတ်၌*[၃] ဖျောက်ဆိပ်ပင်ကျောင်းဘုန်းကြီးဦးနန္ဒကိုဥပဇ္ဈာယ်၊ ကျောင်းမတိုက်ဘုန်းကြီးဦးဂုဏ၊ မြင်ထင်တိုက်ဘုန်းကြီးဦးဓမ္မနှင့် ဖျောက်ဆိပ်ပင်ကျောင်း၊ ကျောင်းမတိုက်၊ မြင်ထင်ကျောင်း၊ ရွှေကျောင်း၊ အုတ်ရစ်ပင်ကျောင်းတို့မှ ကာရကသံဃာတော် နှစ်ကျိပ်ကျော်တို့က ဥပသမ္ပဒကံမြောက် ထောက်ပင့်ချီးမြှင့်တော်မူကြသဖြင့် 'ဝတ်၊ ဥတ်၊ ဣမ္မဝါ၊ သိမာ, ပရိသ–ဟု၊ သမ္ပတ်ငါးလီ၊ ပြည့်ညီစုံရှိ၊ လုံလောက်ဘိ၍' လယ်တီဆရာတော်ကြီး လောင်းလျာရှင်ဉာဏသည် မြင့်မြတ်သောရဟန်းဘဝ သကျပုတ္တိယ, သာကိယဇာတ်, ဘုရားသားတော်အဖြစ်သို့ ရောက်ရှိတော်မူခဲ့ပါသည်။*[၄] ထိုရဟန်းခံပွဲ၌ ရှင်ဉာဏသည် ဖျင်နှစ်ထပ်

---

*[၁] ဒေါ်ကျုံးတွင် ဒေါ်ငုံး၊ ဒေါ်ဖုံးဟု ညီမနှစ်ယောက်ရှိ၏။ ဒေါ်ဖုံး၏ခင်ပွန်းသည်မှာ ဦးကံစဖြစ်၏။ လယ်တီဆရာတော် လောင်းလျာ ရှင်ဉာဏပဇ္ဇင်းခံစဉ်အချိန်က ဒေါ်ဖုံးတွင် သားသမီးရသေးဟန်မတူပေ။ နောင်အခါ ဒေါ်ဖုံးနှင့် ဦးကံစ တို့တွင် မောင်ထင်၊ မကေ၊ မတုတ်–ဟု သားသမီးသုံးဦးထွန်းကားခဲ့သည်။ ဤအချက်တို့ကို စိုင်ပြင်ရွာ ကျောင်းမကျောင်း ဘုန်းကြီးဦးဓမ္မပါလ၏ မှတ်စုမှရရှိပါသည်။

*[၂] ဆရာတော်ဘုရားကြီး ရဟန်းခံနေ့ရက်ကို လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၇)။ ဦးတိုက်ဝမ်း၏ ဝါတော်စဉ်ထေရုပ္ပတ္တိ။ (စာမျက်နှာ–၇)။ ဗမာ့ခေတ်သတင်းစာတိုက်၏ လယ်တီထေရုပ္ပတ္တိချုပ်။ (စာမျက်နှာ–၇)။ စန်းမြမြ၏ လယ်တီရက်စဉ်သမိုင်း။ မြန်မာ့သမိုင်းဟင်းလေး။ (စာမျက်နှာ–၄၄၆)။ မြန်မာ့စွယ်စုံ၊ အတွဲ(၁၁)။ (စာမျက်နှာ–၁၁၇)တို့က 'ကဆုန်လဆန်း ၆–ရက်'ဟုပြ၏။ ဆရာစိုး၏ လယ်တီဆရာတော်ဘုရားကြီး၏ အတ္ထုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ–၇)။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထ ဝင်ပုဂ္ဂိုလ်ကျော်များ။ (စာမျက်နှာ–၃၉)။ ညိုညိုစိုး၏ လယ်တီဆရာတော်ကြီး၏ ဘဝနှင့်စာပေ။ (စာမျက်နှာ–၆)တို့တွင် 'ကဆုန်လဆန်း ၇–ရက်'ဟုပြ၏။

*[၃] ဆရာတော်ဘုရားကြီး ရဟန်းဖြစ်ရာသိမ်ကို လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၇)၌ 'မြင်ထင်သိမ်'ဟုပြသည်။ ဆရာစိုးက ကျောင်းမတိုက်သိမ်တည်နေရာကို 'ကျောက်ခတီးတောင်ဘက် ရေသွင်းမြောင်း နံပါး၌ရှိပါသည်'ဟုပြသည်။ ဆရာစိုး၏ လယ်တီဆရာတော်ဘုရားကြီး၏အတ္ထုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ–၇)။ ယခုမြင်ထင်တိုက်အတွင်း၌ သိမ်အဆောက် အအုံတစ်ခုရှိပြီး၊ ထိုသိမ်သည် လယ်တီဆရာတော်ဘုရားကြီး ရဟန်းခံခဲ့သောရှေးသိမ်မဟုတ်ဘဲ နောက်မှသမုတ်သော သိမ်သစ်သာဖြစ်ကြောင်း ပြောဆိုကြ၏။ ကျောင်းမကျောင်းဘုန်းကြီး ဦးဓမ္မပါလက 'လယ်တီဆရာတော်ဘုရားကြီး ရဟန်းခံသောသိမ်သည် ကျောင်းမကျောင်း၏ ရေကန်အနီး၌ရှိ၏။ ထိုသိမ်ကို အလောင်းစည်သူမင်းကြီးလက်ထက် စိမ်းညက်မထေရ်က သက္ကရာဇ်–၅၂၈ (အေဒီ–၁၁၆၇)ခုနှစ်၌သမုတ်တော် မူခဲ့သောကြောင့် 'ဘုတ်ကြီးမည်၊ သိမ်ကြီးတည်'–ဟု သင်္ကေတရှိကြောင်း (၈–၁၂–၁၉၉၇)နေ့ အမိန့်ရှိပါသည်။ ထိုနေရာ၌ သိမ်နိမိတ်ကျောက်တိုင်များနှင့် သိမ်အဆောက်အအုံ အုတ်ပြာသာဒ်ရှိသော်လည်း အလုံးစုံပြိုပျက်နေ၏။ ယခုအခါ ထိုကျောင်းမကျောင်း၏ မူလသိမ်ကိုဖျက်၍ သက္ကရာဇ်–၁၃၄၂ (အေဒီ–၁၉၈၀)ခုနှစ်၌ သိမ်တိုက်စေတီ အသစ်ကို တည်ထားခဲ့ကြသည်။

*[၄] ရွှေမုံတင်က 'ရဟန်းအဖြစ်သို့ရောက်ရှိတော်မူသောအခါ ရှင်သာမဏေဘွဲ့ ရှင်ဉာဏဝံသကိုပြုပြင်၍ အရှင်ဉာဏဓဇဟု သိမှတ်ခေါ်ကြပါသည်'ဟု ရေးသားပါသည်။ ရွှေမုံတင်၏ လယ်တီနေမင်းကျမ်း။ (စာမျက်နှာ–၆၁)။

သက်န်းကြီးတစ်ထည်၊ သံသပိတ်ကြီးတစ်လုံး၊ ကညစ်တစ်ချောင်းရရှိခဲ့ကြောင်း အမှတ်အသား ရှိလေသည်။*[၁]

**ပထမဝါဆိုတော်မူခြင်း**

အရှင်ဉာဏသည် ရဟန်းအဖြစ်သို့ရောက်သော ထိုသက္ကရာဇ် ၁၂၂၈–ခုနှစ် (အေဒီ ၁၈၆၆–ခုနှစ်၊ ဖွန်လ)တွင် ရှေးဦးဆုံး ဝါ (တနည်း) ပထမဝါကို ဇာတိစိုင်ပြင်ရွာ ဖျောက်ဆိပ်ပင်ကျောင်း ဥပဇ္ဈာယ်ဆရာ၏ခြေရင်းမှာပင် ဝါကပ်ဆိုတော်မူခဲ့ပါသည်။*[၂] ထိုသို့ ဝါကပ်ဆိုနေစဉ်အတွင်း မယ်တော်ကြီးဒေါ်ကျုံး ကွယ်လွန်ခဲ့ပါသည်။

အရှင်ဉာဏသည် မြင့်မြတ်သောရဟန်းအဖြစ်သို့ရောက်ရှိသောအခါ စာပေသင်ယူရေးကိစ္စ၌သာ အထူးအလေးဂရုပြုနေတော်မူခဲ့၏။ ဖျောက်ဆိပ်ပင်ကျောင်းဘုန်းကြီးဦးနန္ဒထံတော်တွင် ဝိနည်းပါဠိတော်ကြီးကို အဋ္ဌကထာနှင့်တကွ ကျနစွာသင်ယူတော်မူသည်။ ထို့နောက် ကျောက်ကာရွာဘုန်းကြီးဦးဝဏ္ဏပို့ချသော ဋီကာကျော်စာဝါကိုလည်းလိုက်ခဲ့သည်။ စာဝါတို့မှလွတ်သောအချိန်တွင် ဒီပဝင်၊ မဟာဝင်၊ စူဠဝင်မှစ၍ ထိုထိုသောဂန္ထန္တရကျမ်းဂန်များကိုဖတ်ရှုတော်မူခြင်းဖြင့် အချိန်ကိုကုန်လွန်စေခဲ့ပါသည်။

အရှင်ဉာဏသည် မြင်ထင်တိုက်၌ ဦးဓမ္မသာရစုဆောင်းထားသော သင်ရိုးကျမ်းစာမဟုတ်သော ကျမ်းအိပ်ကျမ်းလေး ပါဠိတော် အဋ္ဌကထာ ဋီကာဆိုင်ရာပေစာများကို နိသျကျမ်းဂန်တို့နှင့် တိုက်ဆိုင်ပြီး တစ်ကျမ်းပြီးတစ်ကျမ်း ပလ္လင်ပေါက်ဖတ်ရှုခဲ့လေသည်။ မြင်ထင်တိုက်ရှိ စာတိုက်သေတ္တာတို့မှဖတ်စရာပေထုပ်တို့ကုန်သော် ဖျောက်ဆိပ်ပင်တိုက်ရှိ ဦးနန္ဒစုဆောင်းထားသည့် စာတိုက်ဗီဒိုကြီးငါးလုံးအပြည့်ရှိသော ပေစာများကိုဖတ်ရှုပြန်သည်။ ထိုမှတစ်ဖန် အုတ်ရစ်ပင်ကျောင်းရှိ ပေတိုပေစများကိုလည်းယူ၍ဖတ်ရှုတော်မူပြန်သည်။*[၃] ထိုစဉ်က ဖတ်ရှုတော်မူရသော ကျမ်းစာတို့တွင် နိဿယစာပေအရေးအသားကို အနှစ်သက်ဆုံးဖြစ်လေသည်။

နိဿယ–ဟူသောပါဠိစကား၏အဓိပ္ပာယ်မှာ 'မှီရာ'ဟုဖြစ်သည်။ ပါဠိတော်အဋ္ဌကထာဋီကာကျမ်းများကိုဖတ်ရှုရာတွင် နားမလည်သောပုဒ်၊ ခက်ခဲသောပုဒ်တို့ကိုတွေ့လျှင် မြန်မာဘာသာဖြင့် ရှင်းရှင်းလင်းလင်းအနက်အဓိပ္ပာယ်သိစေရန် အဘိဓာန်ကျမ်းကိုဖြစ်စေ၊ နိဿယကျမ်းကိုဖြစ်စေကြည့်ရသည်။ ထိုစဉ်က ပိဋကတ်ပါဠိတော်၊အဋ္ဌကထာ၊ဋီကာတို့၌လာပုဒ်တိုင်းကိုပြသော

*[၁] လယ်တီဆရာတော်ဘုရားကြီး၏ တူ ဖိုးဝါဆိုပြောသည်ကိုမှတ်သားခဲ့ရကြောင်း ကျောင်းမကျောင်းဘုန်းကြီးဦးဓမ္မပါလ (၈–၁၂–၁၉၉၇)နေ့အမိန့်ရှိသည်။

*[၂] လယ်တီပဏ္ဍိတဦးမောင်ကြီး၏ လယ်‌ ‌မဟာထေရုပ္ပတ္တိဘုန်းတော်ဘွဲ့ဂါထာအမှတ်(၆)၌– သဂါမေ ပထမံ ဝဿံ၊ ဝသိတွာန သိရီနွရော။ '၁၂၂၈–ခုနှစ်တွင် ရဟန်းအဖြစ်သို့ရောက်တော်မူ၏။ ထိုနှစ်မှာပင် ရဟန်းအဖြစ်ဖြင့် မိမိဇာတိရပ်ရွာ၌ ဝါကပ်တော်မူ၏'ဟုဖော်ပြထားသည်။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ကဗျာမဥ္ဇရီ။ ၁၃၂၃–ခုနှစ်။ (စာမျက်နှာ–၁၄၉)။ စန်းမြမြ၏ လယ်တီရက်စဉ်သမိုင်း။ ဗမာ့သမိုင်းဟောင်းလေး။ ၁၉၈၂–ခုနှစ်။ (စာမျက်နှာ–၄၄၆)၌ 'လယ်တီဆရာတော်ကြီးသည် ပထမဝါကို ၁၂၂၉–ခုနှစ် (၁၈၆၇–ခုနှစ်)တွင် စိုင်ပြင်ရွာ၌ဝါကပ်ဆိုသည်'ဟုဖော်ပြထား၏။

*[၃] လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၃၉)။

တိပိဋကပါဠိမြန်မာအဘိဓာန်မျိုးမရှိသေး၍ အနက်ရှာရာ၌အခက်များစွာကြုံရ၏။ နိဿယကျမ်းမည်သည်ကား ပါဠိတစ်ပုဒ် မြန်မာတစ်ပုဒ် ယှဉ်ကာယှဉ်ကာပြဆိုအပ်သော ဘာသာပြန်ကျမ်းမျိုးဖြစ်ခြင်းကြောင့် စာသင်ပျို့နအခြေပြုတို့အဖို့ အလွန်အကျိုးများလေသည်။ ပါဠိမနိုင်သူတို့အတွက် မှီခိုရာဖြစ်သောကြောင့် ထိုကျမ်းမျိုးကို မြန်မာလို 'မှီရာ'၊ ပါဠိဘာသာဖြင့် 'နိဿယ=နိသျ' ဟုခေါ်ခြင်းဖြစ်သည်။ ဘုန်းကြီးကျောင်းပညာရေးတွင် နိဿယကျမ်းများသည် သက်မဲ့ဆရာတစ်ဆူဖြစ်လေသည်။

**သီလနှင့်ပညာ**

အရှင်ဉာဏသည် စာပေဗဟုသုတလိုလားသူပီပီ စိုင်ပြင်ရွာအတွင်းရှိ ကျောင်းတိုက်ကြီးငယ်အသွယ်သွယ်တို့၌သီတင်းသုံးနေတော်မူသော ဘုန်းတော်ကြီးတို့ထံချဉ်းကပ်ပြီး စာဝါလိုက်ခြင်းနှင့်ဗဟုသုတအလို့ငှာ မေးမြန်းမှတ်သားခြင်းတို့ကိုလည်းပြုတော်မူခဲ့ပါသည်။ အခြားအနီးအနားရွာများရှိ ရွာကျောင်းများမှ စာသင်စာချကောင်းသောဘုန်းကြီးများ၊ ဗဟုသုတစုံလင်သောလူပုဂ္ဂိုလ်များ၏သတင်းကိုနားစွင့်လျက် ထိုရဟန်းပညာရှိ လူပညာရှိပုဂ္ဂိုလ်များရှိရာအရပ်ဒေသသို့လည်း အရှင်ဉာဏ ရောက်အောင်ကြွတော်မူ၍ စာပေဗဟုသုတ‍ ်သားဖွယ်တို့ကိုမေးမြန်းမှတ်သားကာ နာယူတော်မူလေ့ ရှိသည်။

'ပညာသင်လျှင် လွယ်ကာရ,ပါရစေ'ဟူသော ရှေးဆုတောင်းကောင်းခဲ့သည့်အလားအရှင်ဉာဏသည် မည်သည့်စာကိုမျှအပန်းတကြီးအားထုတ်နေရသည်မရှိ၊ ကြည့်ကာရှုကာမျှဖြင့်လွယ်လင့်တကူနားလည်နိုင်စွမ်းရှိပေသည်။ အနက် ဒိပ္ပာယ်ကြံဆကောက်ယူရာတွင်လည်းအမြင်ထက်သန်စူးရှလှပေသည်။ အမူအရာနူးညံ့သော်လည်း သမာဓိကြီးသဖြင့် မျက်နှာထားအစဉ်တင်းမာလျက်ရှိတတ်ပေရာ အရှင်ဉာဏကို ရောရောနှောနှောမလုပ်ဝံ့ကြပေ။*၁ ထို့ပြင်စာပေမွေ့လျော်သူတို့ထုံးစံ ဆွမ်းစဉ်ပရိတ် သာမူနာမူကိစ္စအဝဝတို့ကိုပယ်ဖြတ်ထား၏။ ကုသိုလ်ပညာမရှာမှီးဘဲ အလဟဿနေ၍အချိန်ဖြုန်းမှု၊ စကားတသောသောနှင့်ရောနှောပြောဆိုမှုတို့ကိုလည်း စက်ဆုပ်တော်မူသည်။*၂

'ကိုယ့်ကိုကိုယ်ရှင်၊ ငါပဥ္စင်ဟု၊ ဝန်လျှင်ခံငြား၊ ဘုရားသားသည်၊ ဟောကြားရွှေနှုတ်၊ သိက္ခာပုဒ်ကို၊ မယုတ်စေရက်၊ စောင့်စည်းလျက်ပင်၊ အသက်ကိုသာ၊ သေခံရာ၏'– ဟူ၍သုခါဝဟန္တ ပျို့ဆရာဖွဲ့ဆိုသည့်အတိုင်း အရှင်ဉာဏသည် ရဟန်းဖြစ်သည့်အချိန်မှစ၍ ၂၂၇–သွယ်သောသိက္ခာပုဒ်တို့ကို အသက်ပမာအလေးဂရုပြုစောင့်ထိန်းတော်မူ၏။ ထို ၂၂၇–သွယ်သောသိက္ခာသီလကိုဆောက်တည်နိုင်ရေးအတွက် သီလ၏အခြေခံကျင့်ဝတ်ဖြစ်သော ခုတင်အကျင့်တို့ကိုလည်း မချွတ်မယွင်းစေခဲ့ပေ။

ထို့ပြင် ဥပဇ္ဈာယ်ဝတ်, သီတင်းသုံးဖော်အချင်းချင်းတို့အပေါ်ပြုကျင့်ရမည့် သမာစရိကဝတ်တို့ကိုလည်းမချွတ်စေရအောင် သတိပြုဆောင်ရွက်ခြင်းဖြင့် မိမိ၏သီလအရောင်ကို

---

*၁ လယ်တီဦးလုပိုင်၏ လယ်တီဂန္ထ ဝင်ကျော်များ။ (စာမျက်နှာ–၃၈)။

*၂ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၇၃)။

အစဉ်တောက်ပြောင်စေခဲ့သည်။ ထို့ပြင် အရှင်ဉာဏရဟန်းအဖြစ်သို့ ရောက်သည့်အချိန်မှစ၍ ဉပဇ္ဈာယ်ဆရာသမားများ၏ဆုံးမမှုကြောင့် လူတို့နှင့်ရောနှောခြင်းကင်းသလို ပစ္စည်းပစ္စယ သိုမှီးခြင်းလည်းကင်းခဲ့ပြီဖြစ်သည်။ ရှေ့သို့ အရှင်ဉာဏ၏ဘဝခရီးဆက်လေလေ ဤအကျင့်ပို၍ ထင်ရှားလေလေဖြစ်တော့မည်။

## ပညာရေးမျှော်မှန်းချက်

စာပေအဖတ်အမှတ်များလာသောအခါ အရှင်ဉာဏ၏စိတ်အာရုံတွင် စိုင်ပြင်ရွာငယ်ကလေး တည်းဟူသောဇနပုဒ်ကိုကျော်လွှားကာ မင်းနေပြည်တော်ကို မှန်းဆမြင်ယောင်တော်မူမိတော့သည်။ 'မင်းနေပြည်တော်ရှိ တံဆိပ်တော်ရ,မရစာချဆရာတော်ကြီးများထံတွင် စာတစ်ဝါတစ်ရှည် လိုက်ခွင့်ရသော် ကောင်းလေစွ' ဟူသောဆန္ဒသည်လည်းဖြစ်ပေါ်လာခဲ့သည်။

အရှင်ဉာဏရဟန်းဖြစ်စ သက္ကရာဇ် ၁၂၂၈ (အေဒီ ၁၈၆၆–ခုနှစ်) ထိုအချိန်အခါသည်ကား ပဥ္စမသံဂါယနာတင်မင်းတုန်းမင်းကြီး ရတနာပုံမန္တလေးနေပြည်တော်သစ်ကြီး တည်ထောင်ပြီးစီး တော်မူစကာလ ဖြစ်လေသည်။ မြို့တော်ဟောင်းအမရပူရတွင် သီတင်းသုံးနေတော်မူကြသော တံဆိပ်တော်ရ,မရဆရာတော်ကြီးများကို ရတနာပုံမန္တလေးမြို့သစ်သို့ပင့်ဆောင်ပြီး နန်းမြို့အရှေ့ပြင် သီရိအရပ်၌ ကျောင်းတိုက်ကြီးများဆောက်လုပ်ပြီး သီတင်းသုံးစေတော်မူသောကြောင့် ရတနာပုံ မန္တလေးမြို့တော်ကြီးတွင် စာချဆရာတော်ကြီးများစုံလင်တော်မူကာ ပရိယတ္တိသာသနတက္ကသိုလ် ကြီးသဖွယ်ဖြစ်နေလေသည်။

အနယ်နယ်အရပ်ရပ်မှ စာသင်သားများသည်လည်း မန္တလေးရွှေမြို့တော်ကျောင်းတိုက်ကြီး များသို့လာရောက်နေထိုင်ကြပြီး စာဝါလိုက်ကြခြင်း၊ မန္တလေးတောင်ခြေ ကျောက်တော်ကြီးဘုရား အရှေ့မုခ်အထွက်တောင်ဘက်ရှိ သုဓမ္မာဇရပ်ဟုထင်ရှားသော ကျွန်းသားဇရပ်တန်း ၃၃–ဆောင် တို့၌ကျင်းပသော စာပြန်ပွဲများ၌ဝင်ရောက်ပြန်ဆိုတော်မူကြခြင်းများပြုကြခြင်းဖြင့် မန္တလေးရွှေမြို့ တော်ကြီးသည် သက်န်းရောင်ထိန်ထိန်လျှပ်နေသော သာသနာ့မြို့တော်ကြီးလည်းဖြစ်၍နေပြန် သည်။

မန္တလေးမြို့တော်သစ်ကြီးနှင့် အမရပူရမြို့တော်ဟောင်းနှစ်ရပ်ပေါင်း ကျောင်းတိုက်ကြီး ငယ်–၂၁၇၊ ကျောင်းပေါင်းမှာ ၁၄၄၂–ကျောင်းရှိသည်။ ထိုကျောင်းတိုက်တို့၌သီတင်းသုံးနေ သော သံဃာအရေအတွက်မှာ ဇရာ၁၈–ပါး၊ သာမဏေပေါင်း ၆၆၄၈–ပါး အစုစုရဟန်းသာမဏေ ၁၅,၃၆၆–ပါးဖြစ်ပါသည်။[*၁] ဤသို့လျှင် ရတနာပုံမန္တလေးမြို့တော်ကြီးတွင် သက်န်းတော်ရောင် ထိန်လျှပ်၍ သာသနာတော်နေလသဖွယ်ထွန်းတောက်နေပုံသတင်းစကားတို့ကိုကြားရလေလေ ရတနာပုံမန္တလေးမြို့တော်ကြီးသို့ အရှင်ဉာဏသွားချင်သောဆန္ဒပြင်းပြလေလေဖြစ်နေတော့သည်။

---

*၁ ဤကျောင်းတိုက်စာရင်းသည် ၁၂၂၂ (အေဒီ–၁၈၆၀)ခုနှစ်မှ ၁၂၄၀ (အေဒီ–၁၈၇၈)ခုနှစ်အထိ နှစ်စဉ် ဝါခေါင်လလျှုဒါန်းမြဲ ဖြစ်သောစာရင်းဖြစ်သည်။ ရွှေကိုင်းသား၏ အနှစ်တစ်ရာပြည့်မန္တလေး။ လူထုပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၃၂၀–ပြည့်နှစ်။ (စာမျက်နှာ–၁၆၆)။

အရှင်ဉာဏသည် မန္တလေးရတနာပုံမင်းနေပြည်တော်သို့အရောက်သွား၍ စာတတ်အကျော် ဆရာတော်ကြီးများထံနည်းခံကာ ပညာသင်တော့မည်ဟု သန္နိဋ္ဌာန်ချဆုံးဖြတ်တော်မူပြီးလျှင် ဥပဇ္ဈာယ်ဆရာဘုန်းကြီးဦးနန္ဒထံတော်၌ မင်းနေပြည်တော်တွင် စာသင်ခွင့်ပြုတော်မူပါမည့် အကြောင်းကို ရိုသေစွာခွင့်ပန်လျှောက်ထားလေသည်။ ဘုန်းတော်ကြီးဦးနန္ဒသည် အရှင်ဉာဏကို ရတနာပုံမန္တလေးသို့သွားရန်အရေးနှင့်စပ်၍ များစွာစဉ်းစားတွေးဆနေတော်မူသည်။

မင်းတုန်းမင်းကြီး ရတနာပုံမန္တလေးမြို့သစ်တည်စဉ်အခါက ကျော်အောင်စံထားဆရာတော်၊ စကုတိုက်ဆရာတော်၊ ပြည်ဆရာတော်၊ ဆင်တဲဆရာတော်၊ မိုးထိဆရာတော်စသော ဆရာတော်ကြီး ၂၂–ပါးတို့က ကန့်ကွက်တော်မူကြရာ၊ ဘုံကျောင်းဆရာတော်စသော ဆရာတော်ကြီးတို့က မန္တလေးမြို့ကို 'ဘုရားလက်ညှိုးအထိုးခံရသောမြို့'ဟုအပြစ်ဆိုကြသည်။[*၁] အကြောင်းမှာ ရတနာပုံမန္တလေးမြို့သစ်သည် မြို့ဦးမြို့ထိပ်၌ မန္တလေးတောင်ပေါ် မားမားမတ်မတ်ရပ်တည်နေသည့် ဗျာဒိတ်ပေးရွှေရပ်တော်ကြီး၏[*၂] လက်ညှိုးညွှန်ထားမှုကိုခံရသောကြောင့်ဖြစ်သည်။

ဖျောက်ဆိပ်ပင်ဘုန်းကြီးက မန္တလေးနေပြည်တော်သို့စာသင်သွားလိုလျှင် တစ်ဝါတစ်ရှည် နေ၍ စာသင်မည်ဆိုပါက မတားလို။ မင်းနေပြည်မြို့တော်ကြီးဖြစ်သည့်အတွက် အာရုံပုံ့လွှင့်စရာ ပေါများသောကြောင့် စိတ်မတည်မငြိမ်ဖြစ်ကာ ပျက်စီးသွားမည်ကိုစိုးရိမ်မိကြောင်း ပြောဆိုဆုံးမသည်။ သို့ပါသော် တပည့်ဖြစ်သူအရှင်ဉာဏက 'မန္တလေးရတနာပုံနေပြည်တော်တွင် စာကိုသာပဓာနထား၍သင်ယူပါမည်၊ စာတတ်လျှင် မိမိဇာတိ ရပ်ရွာသို့ပြန်ခဲ့ပါမည်' စသည်ဖြင့် လျှောက်ထားလေရာ 'တပည့်ချစ်၊ အဝေးပစ်ရသည်'ဟူသောဆိုထုံးအရ ဖျောက်ဆိပ်ပင်ဘုန်းကြီးသည် အရှင်ဉာဏကို မန္တလေးမြို့တော်သို့စာသင်ရန် ခွင့်ပြုတော်မူခဲ့ရပါတော့သည်။

**နန်းတွင်းအရေးတော်ပုံ**

အရှင်ဉာဏသည် ရတနာပုံမန္တလေးသို့သွားရန် ဥပဇ္ဈာယ်ဆရာထံမှအခွင့်ရ၍ အစီအစဉ်ပြုလုပ်နေဆဲမှာပင် 'မန္တလေးရွှေနန်းတော်ကြီး၌ နန်းတွင်းအရေးတော်ပုံကြီးဖြစ်နေပြီ' –ဆိုသော သတင်း ဒီပဲယင်းသို့ရောက်ရှိလာလေသည်။

ထို ၁၂၂၈–ခုနှစ်၊ ဒုတိယဝါဆိုလပြည့်ကျော် ၇–ရက် (အေဒီ ၂၊ ဩဂုတ်လ၊ ၁၈၆၆–ခုနှစ်) ကြာသပတေးနေ့ နေ့နှစ်ချက်တီးအချိန်တွင် မန္တလေးတောင်ခြေ နန်းမြေဘုံသာစံနန်းတော်ကြီး (ယခု စန္ဒာမုနိဘုရားဝင်းနေရာ)တွင် မင်းတုန်းဘုရင်မင်းကြီး အနားယူစံနေတော်

---

*၁ ဒေါက်တာသန်းထွန်း၏ နယ်လှဲ့ရာဇဝင်၊ တတိယတွဲ။ နံ့သာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၅၅)။ ဒေါက်တာတိုးလှ၏ ကိုယ့်ထီးကိုယ့်နန်း ကိုယ့်ကြငှန်းနှင့်။ လင်းရတနာစာပေတိုက်၊ ရန်ကုန်မြို့။ ၂၀၀၄–ခုနှစ်။ (စာမျက်နှာ–၇၅)။

*၂ ဤဗျာဒိတ်ညွှန်းဘုရားကြီးကို ၁၂၂၁–ခုနှစ်၊ နှောင်းတန်ခူးလ(အေဒီ–၁၈၅၇၊ ဧပြီလ)တွင် မြတ်စွာဘုရားရှင်၏ အရပ်တော်ပမာဏအတိုင်းထုလုပ်ခဲ့ခြင်းဖြစ်သည်။ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၂၈၆)။

မူပါသည်။ ထိုအချိန် အိမ်ရှေ့စံ ကနောင်မင်းသားကြီးသည်လည်း ထိုစံနန်းတော်အနီး တဲကြီးတွင် မှူးမတ်အတွင်းဝန်များနှင့် ပြည်ထဲရေးရာစည်းဝေးနေခိုက် မင်းတုန်းမင်းကြီး၏သားတော်လည်းဖြစ်၊ ကနောင်မင်းသား၏ သားမက်တော်လည်းဖြစ်သော မြင်းခုန်တိုင်မင်းသားနှင့် မြင်ကွန်းစားမင်းသား ညီနောင်တို့သည် နောက်ပါလူသူငါးဆယ်ကျော်တို့ကို ဦးဆောင်ကြကာ စံနန်းတော်တောင်ဘက်မှ ဝင်ရောက်လုပ်ကြံရာ အိမ်ရှေ့စံကိုယ်တော်ကြီး ထိုနေရာမှာပင်ကံတော်ကုန်လေသည်။ မင်းတုန်းဘုရင်ကြီးမှာမူ သားတော်မက္ခရာမင်းသားကိုတွဲ၍ နန်းတွင်းသို့အပြေးဝင်တော်မူသောကြောင့် အသက်ချမ်းသာရာရတော်မူခဲ့သည်။*၁

ဤသို့ နန်းတွင်းလုပ်ကြံမှုကြီးဖြစ်ပွားသောအခါတွင် နန်းမြေဘုံသာစံနန်းတော်နှင့် ရတနာပုံ ရွှေမြို့တော်ကြီး အတွင်းပြင်ပတ်လည်ရှိကုန်သော ပြည်သူပြည်သားအပေါင်းတို့ အုတ်ကျက်ထိတ်လန့်ကြောက်ရွံ့ကြကာ ပြေးကြလွှားကြအော်ဟစ်ကြ ရုတ်ရုတ်သဲသဲဖြစ်ကြသည်ကို ကနောင်မင်း၏သားတော်များဖြစ်ကြသော ပတိမ်းမင်းသား၊ ကြေးမြင့်မင်းသား၊ တိုင်တားမင်းသား၊ တောင်ဆင်းမင်းသားနှင့် ရွာသာမင်းသားတို့က မိမိတို့ခမည်းတော် ကနောင်မင်းသားကြီးကို နန်းတော်ကြီးက(မင်းတုန်းဘုရင်ကြီးက)ဖမ်းလိုက်ပြီဟု သတင်းအမှားကိုကြားကြလေသည်။ ထို ညီနောင်တစ်စုတို့ ခမည်းတော်အိမ်ရှေ့စံကနောင်ကိုယ်တော်ကြီး ကံတော်ကုန်မှန်းကိုလည်း မသိကြသည့်အလျောက် မိမိတို့၏ခမည်းတော်ကိုပြန်လုရန်အစီအစဉ်များပြုလုပ်ကြကာ မိမိတို့၏ သစ္စာခံကျွန်တော်မျိုးများနေထိုင်ရာ မြေဒူးမြို့၊ ဒီပဲယင်းမြို့၊ ပဥ္စာလမြို့၊ ရတနာသိယ်(ရွှေဘို) စသည်ဘက်သို့ ရှောင်ပြေးတော်မူခဲ့ကြသည်။*၂

ဤသို့ဖြင့် အိမ်ရှေ့ကိုယ်တော်ကြီး၏သားတော်များသည် လူသူစုရုံးကာ ရှောင်ပြေးကြသောအမှုဖြင့် ပုန်ကန်ခြားနားသူများဖြစ်မှန်းမသိဖြစ်ခဲ့ကြရရှာသည်။ အိမ်ရှေ့ကိုယ်တော်ကြီး၏ သားတော် ပတိမ်းမင်းသားသည် ရတနာသိယ်ရွှေဘိုမြို့မှနေ၍ ကျွန်တော်ရင်းဖြစ်သူ ဒီပဲယင်းမြို့ဝန်ဦးမှန်းကို မဟာအဂ္ဂသေနာပတိဗိုလ်ချုပ်ဝန်ကြီးအရာထားပြီး ပုန်ကန်ရန်ကြိုးပမ်းခဲ့၏။ အရေးတော်အောင်မြင်ရန်အလားအလာရှိသောအခါ ဒီပဲယင်းဝန်ဦးမှန်းက ပတိမ်းမင်းသားကို ဘေးဖယ်လိုက်ပြီး ကိုယ်တိုင်ခေါင်းဆောင်လုပ်ကာ အရေးတော်ပုံအောင်မြင်ပါက ရှင်ဘုရင်လုပ်ရန် ကြံစည်တော့သည်။ ဤသို့ ဒီပယင်းဝန်ဦးမှန်း၏ကောက်ကျစ်ယုတ်မာမှုကို တပ်သားများ သိသွားကြပြီး ဦးမှန်းကိုပြန်လည်ပုန်ကန်ကြရာ အဆုံးတွင် ပန်းထိမ်းမင်းသား၏တပ် ပျက်ပြားခဲ့လေတော့သည်။ ဦးမှန်းသည်လည်း အရေးမလှသည့်အတွက် အောက်ပြည်သို့စုန်ပြေးကာ အင်္ဂလိပ်ဘက်သို့ခိုဝင်သွားခဲ့၏။*၃

---

*၁ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈-ခုနှစ်။ (စာမျက်နှာ-၃၃၅)။

*၂ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈-ခုနှစ်။ (စာမျက်နှာ-၃၃၉)။

*၃ ရွှေပြည်ဦးဘတင်၏မြန်မာစာပေလောက။ ၁၉၆၇-ခုနှစ်။ (စာမျက်နှာ-၇၂၊ ၇၃)။ ရွှေဘိုမိမိကြီး၏မင်းလက်ဝါး။ ၁၉၇၉-ခုနှစ်။ (စာမျက်နှာ-၃၁)။

စိုင်ပြင်ရွာအပါအဝင် ဒီပဲယင်းနယ်တစ်ဝိုက်သည် အိမ်ရှေ့စံကနောင်ကိုယ်တော်ကြီးကို ကြည်ညိုသောနယ်ဖြစ်သဖြင့် အိမ်ရှေ့စံကိုယ်တော်ကြီးစံလွန်တော်မူသောသတင်းသည် ရတနာသိယ်(ရွှေဘို)၊ မြေဒူး၊ ပဉ္စာလ၊ တောင်တွင်းကြီးနှင့် ဒီပဲယင်းတစ်ဝိုက်တွင် ပို၍ပြန့်နှံ့ရိုက်ခတ်လျက်ရှိသည်။ ထို့ပြင် ဒီပဲယင်းဝန်ဦးမှန်း အရေးနိမ့်ထွက်ပြေးရာ ဒီပဲယင်းနယ်တွင်ကျန်ရစ်သော ပန်းထိမ်းမင်းသား၏တပ်များကို နေပြည်တော်မှ ကိုးမြို့ဝန်မင်းလက်ဝဲကြီး၏တပ်များက လာရောက်နှိမ်နင်းသဖြင့် ဒီပဲယင်းနယ်တစ်ဝိုက်မှာ ခေါင်းမမော်ဝံ့အောင်ဖြစ်ခဲ့ကြရသည်။

မန္တလေးနေပြည်တော်ကြီး၌မူကား နန်းတွင်းလုပ်ကြံမှုအရေး၊ ပန်းထိမ်းစားအရေးစသည်တို့ဖြင့် ဆူပွက်လှုပ်ရှားချောက်ချားနေသောကြောင့် ရွှေမြို့တော်လေးပြင်လေးရပ်ရှိ ရဟန်းသံဃာတော်တို့မှာလည်း အေးငြိမ်းရာအရပ်သို့အသာခိုနေခဲ့ကြရကုန်၏။ ထိုအချိန်က မန္တလေးမြို့ လေးပြင်လေးရပ်ရှိကျောင်းတိုက်များမှ သံဃာတော်အရှင်မြတ်တို့ မြို့တွင်းဆွမ်းခံဝင်ရန်အခွင့်မသာ၍ မင်းတုန်းမင်းကြီးက ကျီတော်မှနန်းတော်သုံးဆွမ်းဆန်တော်တို့ကို ထောက်မပေးကမ်းလှူဒါန်းတော်မူ၍ ချမ်းသာစွာနေထိုင်ခွင့်ရတော်မူခဲ့ကြပါသည်။*[၁]

ဤသို့ နန်းတွင်းရေးလှုပ်ရှားမှုများဖြစ်ပေါ်နေသောကြောင့် အရှင်ဉာဏသည် မင်းနေပြည်တော်သို့ သွားရောက်ရန်အခါမသင့်ဖြစ်ရကား တိုင်းကားပြည်ရွာအေးချမ်းလာမည့်အချိန်အခါကို စောင့်မျှော်ရင်း စိုင်ပြင်ရွာမှာပင် ရတတ်သရွေ့စာပေတို့ဖြင့် ရောင့်ရဲတင်းတိမ်နေတော်မူရရှာလေသည်။

**မင်းတုန်းမင်းကြီး၏ လွတ်ငြိမ်းချမ်းသာခွင့်အမိန့်**

သက္ကရာဇ် ၁၂၂၉–ခုနှစ်၊ နယုန်လ (အေဒီ ၁၈၆၇၊ ဇွန်လ)သို့ရောက်သော် မြင်ကွန်းမင်းသားညီနောင်တို့လုပ်ကြံမှုကြောင့် ကံတော်ကုန်ခဲ့ကြသော အိမ်ရှေ့စံကနောင်မင်းသားကြီးနှင့် မလွန်မင်းသား၊ စကုမင်းသား၊ ပြင်စည်မင်းသားတို့ကို နန်းမြေဘုံသာစံနန်းတော်နေရာမှာပင် စံနန်းတော်ကိုဖျက်၍ အုတ်ဂူသွင်းသဂြိုဟ်တော်မူသည်။ ထိုဂူ၏အရှေ့နှစ်တောင်အကွာတွင် အုတ်ပြာသာဒ်နှင့် ဂန္ဓကုဋီဆောက်လုပ်ပြီး အမရပူရမြို့တော်မှပင့်ဆောင်လာသော စန္ဒာမုနိရုပ်ပွားတော်ကြီးနှင့် စေတီတော်တစ်ဆူကိုပါ တည်ထားကိုးကွယ်တော်မူခဲ့၏။*[၂] ထို့ပြင် မင်းတုန်းမင်းတရားကြီးသည် 'အဘယဒါန' ပြုသည့်အနေဖြင့် လွတ်ငြိမ်းချမ်းသာခွင့်ပေးအမိန့်တော်ကို အောက်ဖော်ပြပါအတိုင်းထုတ်ပြန်ခဲ့သည်။

---

*၁ သီရိကုမာရ၏ ကျောက်ကာမဟာထေရုပ္ပတ္တိစာတမ်း။ ပြည်ကြီးမဏ္ဍိုင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၄–ခုနှစ်။ (စာမျက်နှာ–၂၈)။

*၂ မြင့်မြင့်မော်၏ မန္တလေးရှိ ရတနာပုံခေတ်စေတီပုထိုးများသမိုင်း။ ရန်ကုန်တက္ကသိုလ်သမိုင်းဌာနတွင် မဟာဝိဇ္ဇာဘွဲ့အတွက် ၁၉၉၂–ခုနှစ်တွင် တင်သွင်းသောကျမ်းဖြစ်သည်။ လက်နှိပ်စက်မူ။ (စာမျက်နှာ–၆၃)။ ရသေ့ကြီးဦးခန္တီ က သက္ကရာဇ်–၁၂၇၅ (အေဒီ–၁၉၁၃)ခုနှစ်တွင် ထိုစန္ဒာမုနိစေတီတော်ကိုဝန်းရံလျက် အဋ္ဌကထာပါဠိကျောက်စာချပ်များကိုစိုက်ထူထားရှိ၏။ ၁၉၉၂–ခုနှစ်တွင် ကနောင်မင်းသား၏အုတ်ဂူကို စေတီရင်ပြင်မှဖယ်ရှားခဲ့သည်။

၁၂၂၈–ခုနှစ်၊ သားတော်မြင်ကွန်းစား၊ တူတော်ပန်းထိမ်းစားတို့ ခြားနားရိုင်းပျစဉ်အခါ နှစ်ကြောင်းနှစ်ပ ပုန်ကန်ခြားနားရာပါဝင်သူအပေါင်းတို့ကို အရေးတော်ပြီးပြေကာလ ကျွန်တော်မျိုး ပြည်သူပြည်သားအပေါင်းတို့သည် ငါ၏ကျေးဇူးတော်ကို ချေပလိုခြင်းအားဖြင့် ပါဝင်ကြသည်မဟုတ်။ ရုတ်ချည်းရှောင်တခင် အထင်မှားယွင်းသဖြင့် ပါမိပါရာပါဝင်ကြခြင်းမျှသာဖြစ်သောကြောင့် သူပုန်ဘက်ပါသူ ကြံစည်ပေါင်းသင်း ခြားနားခုခံရာပါသူဟူ၍ စွဲမှတ်ခေါ်ဝေါ်ခြင်းမရှိစေရ။ ကျွန်တော်မျိုးချည်းဖြစ်ကြသည့်အတိုင်း ပါဝင်မိသူတို့၏စိတ်နှလုံး၌ နှောင့်နှေးကြောင့်ကြမဲ့ မြေချမ်းသာစွာနေထိုင်ကြစေ'[*၁] –ဟုဖြစ်သည်။

အထက်ပါအမိန့်ပြန်တမ်းနှင့်အတူ 'မန္တလေးရွှေမြို့တော်တွင် နန်းတွင်းအရေးတော်ပုံကြီးပြီးပြေအေးငြိမ်းပြီ'ဟူသောသတင်းစကားသည် နိုင်ငံတော်အဝှန်းပျံ့နှံ့လေရာ စိုင်ပြင်ရွာအပါအဝင် ဒီပဲယင်းတစ်ခွင်သို့တိုင်ရောက်လေသည်။ ထိုသတင်းစကားကိုအရှင်ဉာဏကြားသိလျှင် ဥပဇ္ဈာယ်ဆရာဘုရားထံ မန္တလေးမြို့တော်သို့သွားခွင့်ပြုပါရန်ထပ်မံလျှောက်ထားခဲ့သည်။ ဖျောက်ဆိပ်ပင်ဘုန်းကြီးဦးနန္ဒသည် တားမြစ်ရန်အခါမဟုတ်တော့ပြီကိုသိတော်မူပြီးဖြစ်ရာ တပည့်ချစ် အရှင်ဉာဏ၏ပညာရှာခရီးစဉ်ကို ခွင့်ပြုတော်မူရလေတော့သည်။

## မန္တလေးရွှေမြို့တော်သို့

အရှင်ဉာဏသည် ရဟန်းတစ်ဝါအရတွင်[*၂] စိုင်ပြင်ရွာကြီးမှ မန္တလေးရတနာပုံရွှေမြို့တော်သို့ ပညာရှာခရီးကြွတော်မူရာဝယ် မင်းမိန့်စာချွန်များပို့ရာ၌ မြင်းစေတော်တို့အသုံးပြုသော မင်းလမ်းခေါ် လမ်းစဉ်ရွာစဉ်အတိုင်း တစ်ရွာပြီးတစ်ရွာ တစ်ဆင့်ပြီးတစ်ဆင့်ကြွတော်မူခဲ့ခြင်းဖြစ်သည်။

---

*၁ လူထုဒေါ်အမာ၏ကမ္ဘာ့အကြီးဆုံးစာအုပ်ကြီး။ လူ့မိတ်ဆွေစာအုပ်။ ကြီးပွားရေးပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၇၃–ခုနှစ်။ (စာမျက်နှာ–၄၂)။ ဤအရေးတော်ပုံနှင့်စပ်၍ အလားတူပြေငြိမ်းသည့်အမိန့်တို့ကို ROB, IX. Page-632, 633 စသည်၌တွေ့ရသည်။

*၂ လယ်တီဆရာတော်ကြီး စိုင်ပြင်ရွာမှ မန္တလေးမြို့သို့စာသင်ကြွတော်မူသောနေ့ရက်ကို လယ်တီဦးလှပိုင်က '၁၂၂၉–ခုနှစ်၊ နယုန်လဆန်း ၅–ရက်'ဟုဖော်ပြထား၏။ လယ်တီဦးလှပိုင်၏လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှ–၄၁)။ ရွှေမုံတင်က '၁၂၃၀–ပြည့်နှစ်'ဟုပြ၏။ ရွှေမုံတင်၏ လယ်တီနေမင်းကျမ်း။ (စာမျက်နှာ–၆၂)။ မြန်မာ့စွယ်စုံကျမ်း၌ 'ရဟန်းဖြစ်ပြီးသုံးနှစ်အကြာ၊ သုံးဝါအရတွင် မန္တလေးသို့ရောက်သည်'ဟု ပြဆိုထားသည်။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ(၁၁)။ (စာမျက်နှာ–၁၁၇)။ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)က '၁၂၃၁–ခုနှစ်၌ မန္တလေးသို့ကြွသည်'ဟုဖော်ပြထား၏။ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၈)။ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ အဆိုကိုပင်အကိုးပြု၍ ဗမာ့ခေတ်သတင်းစာတိုက်၏လယ်တီထေရုပ္ပတ္တိချုပ်။ (စာမျက်နှာ–၈)။ မောင်ဒီပ၏ လယ်တီဆရာတော်။ စာပေဗိမာန်၊ ရန်ကုန်မြို့။ (စာမျက်နှာ–၆၈)။ စန်းမြမြ၏လယ်တီရက်စဉ်သမိုင်း။ မြန်မာ့သမိုင်းဟင်းလေး။ (စာမျက်နှာ–၄၄၆)။ လယ်တီဆရာတော် ကြီး၏လယ်တီဒီပနီပေါင်းချုပ်၊ ပထမတွဲ။ ဗုဒ္ဓသာသနအဖွဲ့၊ ရန်ကုန်မြို့။ (စာမျက်နှာ–၈)။ အောင်သိဒ္ဓိရွှေကြီး၏ဝါတော်စဉ် အတ္ထုပ္ပတ္တိ။ (စာမျက်နှာ–၈)စသည်တို့တွင်လည်း '၁၂၃၁–ခုနှစ် (အေဒီ ၁၈၉၆–ခုနှစ်)တွင် မန္တလေးမြို့သို့စာသင်ကြွကြောင်း' ဖော်ပြခဲ့ကြသည်။

ရှေးဦးစွာ ဇာတိစိုင်ပြင်ရွာမှ ဝါးတောမရွာသို့၊ ထိုမှ အရာတော်ရွာသို့၊ ထိုမှ နမသင်းရွာသို့၊ ထိုမှ သလဲဘာရွာသို့၊ ထိုမှ ဆင်တလည်ရွာသို့၊[*၁] ထိုမှ မူး မန္တလေး(မြင်းမူရွာ)သို့၊ ထိုမှ အုန်းတောရွာသို့၊ ထိုမှ ရွာထောင်ရွာသို့၊[*၂] ရွာထောင်ရွာမှ စစ်ကိုင်းတောင်ကိုကျော်ပြီးသောအခါ ဧရာဝတီမြစ်ဆိပ်အနောက်ဘက်ကမ်းသို့ရောက်တော်မူပါသည်။ ထိုဧရာဝတီမြစ်၏စစ်ကိုင်းဆိပ်မှ ၄က်သမ္ဗန်ဖြင့်မြစ်ကိုဖြတ်ပြီး မန္တလေးရတနာပုံရွှေမြို့တော်သို့ကြွတော်မူရပါသည်။[*၃] ထိုစဉ်က အရှင်ဉာဏနှင့်အတူ တူတော်သူဖိုးဝါဆို ဆိုသူလည်းအလုပ်အကျွေးအဖြစ်လိုက်ပါခဲ့သည်။[*၄]

အရှင်ဉာဏသည် မိမိရဟန်းတစ်ဝါရစအချိန်က မန္တလေးရတနာပုံရွှေမြို့တော်သို့ ကြွတော်မူစဉ် လမ်းခရီး၌ပင်ပန်းဆင်းရဲခဲ့ယူရတော်မူပုံတို့ကို နောင်သောအခါ တပည့်ဦးဝဏ္ဏိတအား–

‘စိုင်ပြင်ရွာမှ မန္တလေးရွှေမြို့တော်သို့စာသင်ရန်သွားသောအခါ မင်းတို့ ယခုကာလလို မီးသင်္ဘော, မီးရထားမရှိသေးဘူးကွဲ့။ လှည်းကြို့ လှေကြို့ လူကြို့များနှင့် အဆင်သင့်သလို သွားရတယ်ကွဲ့။ ငါ့မှာတော့ သက်နီးသုံးထည်ကို လက်စွပ်အိတ်တွင်းထည့်လွယ်ပြီး စာပုလွေထမ်း၍ ခရီးပြင်းတစ်လကိုးသီတင်းလာရတယ်ကွဲ့’

ဟူ၍ အမိန့်ရှိတော်မူပါသည်။[*၅]

---

*၁ ဝါးတောမ၊ အရာတော်၊ နမသင်း(?)၊ သလဲဘာနှင့် ဆင်တလည်–စသည့်ရွာများတို့သည် ယခု မုံရွာခရိုင်၊ အရာတော်မြို့နယ်အတွင်း၌ ပါဝင်ကြသည်။

*၂ အုန်းတောရွာ၊ ရွာထောင်ရွာ (ကြွယ်ပုံကျေးရွာအုပ်စု)တို့သည် ယခု စစ်ကိုင်းခရိုင်၊ စစ်ကိုင်းမြို့နယ်အတွင်း၌ ပါဝင်ကြသည်။

*၃ မုံရွာမြို့ ရွှေတမာဆရာတော်ဦးနိသဘ စုဆောင်းထားခဲ့သော လယ်တီဆရာတော်ကြီး၏ ရတနာပုံမန္တလေးသို့ကြွတော်မူသော ရွာစဉ်ကို စိုင်ပြင်ရွာ ကျောင်းမတိုက်ဆရာတော်ဦးခေမ္မပါလထံမှတစ်ဆင့် (၈–၁၂–၁၉၉၇)နေ့တွင် ရရှိပါသည်။

*၄ ဆရာတော်ဘုရားကြီးနှင့်အတူ လိုက်ပါခဲ့သော တူတော်သူ ဖိုးဝါဆိုသည် မန္တလေးမြို့တော်သို့ရောက်သောအခါ အနောက်ဆောင်တွင် ‘ဦးစံထွား’ ဟူသောအမည်ဖြင့် မင်းမှုတော်ထမ်းခဲ့ပါသည်။

*၅ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၂၃)။ လယ်တီဦးလှပိုင်က ‘အရှင်ဉာဏသည် အပိုသက်နီးတစ်စုံနှင့် စာပုလွေ (ပေ ၂–ထုပ်)ကို ထမ်းဆောင်လျက် စိုင်ပြင်ရွာမှ အလုံနယ်(ယခု–မုံရွာ)ဘက်သို့ ခြေလျင်၊ ဆက်လက်၍ မုံရွေးချောင်းဦး၏ အရှေ့ဘက်ရှိ နွယ်ခွေတောင်တန်းကြီးကိုကျော်ဖြတ်ပြီးလျှင် စစ်ကိုင်းကြီးအရပ် စစ်ကိုင်းတောင်တန်းသို့ရောက်ပြီးမှ တစ်ဖန် မန္တလေးတစ်ဘက်ကမ်းသို့ လှေဖြင့်ကူး၍သွားရလေသည်’ဟု ရေးသားထားပါသည်။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၄၃)။

# လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်

## [ဒုတိယပိုင်း]

## စာသင်သားဘဝ

## (သက္ကရာဇ် ၁၂၂၉–သက္ကရာဇ် ၁၂၃၅)*၁

**ရတနာပုံမန္တလေးရွှေမြို့တော်**

အရှင်ဉာဏသည် ဇာတိစိုင်ပြင်ရွာကလေးမှ လှည်းတစ်တန်လှေတစ်ဆင့် အဆင့်ဆင့်သောခရီးတို့ဖြင့် ထွက်ခွာတော်မူခဲ့ရာ၊ ရတနာပုံမန္တလေးရွှေမြို့တော်သို့ သက္ကရာဇ် ၁၂၂၉– ခုနှစ်၊ ဝါမဆိုမီ (အေဒီ ၁၈၆၇–ခုနှစ်၊ ဇူလိုင်လ)အချိန်တွင် ဆိုက်ရောက်တော်မူခဲ့ပါသည်။ အရှင်ဉာဏ ရောက်ရှိတော်မူသော မန္တလေး ရတနာပုံရွှေမြို့တော်ကြီးတွင် မြို့တော်သစ်ဖြစ်သည့်အတိုင်း ရွှေရောင်အတိ ပြီးသော ကျောင်းတော် နန်းတော် အိမ်တော်ကြီးများဖြင့် ‘မြေမှထွားမြောက်၊ ဘွားဘွားပေါက်သား၊ မြားထောက်တထောင်၊ နန်းရွှေတောင်သို့၊ ပြောင်ပြောင် ဝင်းဝါ၊ လင်းလင်းဖြာမျှ၊ ရတနာပုံ၊ နန်းနိုတုံ’*၂ ဟူသော စလေဦးပုည၏ ရတနာနဒီမော်ကွန်းပါ နန်းတော်ကြီးဘွဲ့၌ စပ်ဆိုထားသည့်အတိုင်း မြေမှပေါက် သော ရွှေရောင်ညီးညီး ရွှေတောင်ကြီးအလား ဝင်းဝင်းဝါဝါရှိနေတော့သည်။

ဤမန္တလေးရတနာပုံမြို့တော်သစ်ကြီးကို မင်းတုန်းမင်းကြီး တည်တော် မူပြီးနောက်၊ သက္ကရာဇ်–၁၂၂၂(အေဒီ ၁၈၆၀–ခုနှစ်)၌ ပိဋကတ်သုံးပုံပါဠိတော် တို့ကို အကြိမ်ကြိမ်အထပ်ထပ် ကောင်းစွာပြင်ဆင်ပြီးလျှင် ကမ္ဘာတည်သရွေ့ တည်စေရန် သေလက္ခရခေါ် ကျောက်ထက်အက္ခရာတင် သာသနာပြုလုပ်ငန်း ကြီးကိုလည်း စတင်လုပ်ဆောင်တော်မူခဲ့ပြန်ပါသည်။*၃

အရှင်ဉာဏ မန္တလေးရွှေမြို့တော်သို့ရောက်ရှိသော သက္ကရာဇ် ၁၂၂၉– ခုနှစ်တွင် ကမ္ဘာတည်သရွေ့သာသနာတည်စေမည့် မင်းတုန်းမင်းကြီး၏ ကျောက်ထက်အက္ခရာတင်ကုသိုလ်တော်ကြီးမှာပြီးလုစီးလုဖြစ်၍နေပြီဖြစ်သည်။*၄

---

*၁ **အေဒီ ၁၈၆၈–ခုနှစ်၊ ဧပြီလမှ အေဒီ ၁၈၇၄–ခုနှစ်၊ ဧပြီလအထိဖြစ်သည်။**

*၂ ဦးပုည၏ ရတနာနဒီဘွဲ့မော်ကွန်း၊ (အပိုဒ်–၁)။ တက်နေလင်းပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၃၂၃– ခုနှစ်။ (စာမျက်နှာ–၁)။

*၃ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၃၆၉)။

*၄ ကျောက်ထက်အက္ခရာတင်ပွဲသည် လယ်တီဆရာတော်လောင်းလျာ အရှင်ဉာဏ မန္တလေး ရတနာပုံ သို့ရောက်ရှိတော်မူပြီးနောက်တစ်နှစ် သက္ကရာဇ် ၁၂၃၀–ပြည့်နှစ် (အေဒီ ၁၈၆၈–ခုနှစ်)တွင် လုံးဝ ပြီးစီးအောင်မြင်ခဲ့ပါသည်။

### ပါတိမောက်နှင့်အရှင်ဉာဏ

အရှင်ဉာဏ မန္တလေးရွှေမြို့တော်သို့ရောက်ရှိတော်မူချိန် မြို့တော်လေးပြင်လေးရပ်တို့တွင် ကျောင်းတိုက်ကြီးငယ်များစွာတည်နေသောကြောင့် ပရိယတ္တိသာသနာတော်ကြီးသည် နေလမာ ထွန်းတောက်နေပြီး၊ *၁ နှစ်စဉ်ကျင်းပမြဲဖြစ်သော ပထမစာတော်ပြန်ပွဲကို နယုန်လဆန်း ၈–ရက်မှ ဝါဆိုလဆန်း ၈–ရက်အထိ မန္တလေးတောင်ခြေ သုဓမ္မာဇရပ်တော်တွင် တခမ်းတနား ကျင်းပလျက်ရှိပါသည်။ *၂ ထိုစာတော်ပြန်ပွဲသို့ မန္တလေးမြို့လေးပြင်လေးရပ်မှစာနာရန်ကြွလာသော ရဟန်းရှင်လူပရိသတ်တို့မှာ ကျောက်တော်ကြီးဘုရားကြီး၏တောင်ဘက်မျက်နှာ၊ အနောက်မျက်နှာ၊ စံကျောင်းတိုက်၏အရှေ့မျက်နှာနှင့် တောင်မျက်နှာများတွင် ဆောက်လုပ်ထားသော သုဓမ္မာဇရပ် ၃၃–ဆောင်ပြည့်ရုံမက ယာယီတဲများစွာကိုထိုးပေးရအောင် ထူထပ်စည်ကားလှသည်။

စာသင်သားတို့သည် တောလက်ကျေးရွာတို့မှ မန္တလေးရွှေမြို့တော်ရှိစာသင်တိုက်များသို့ စာသင်လာကြရာတွင် များသောအားဖြင့် မိမိတို့ရပ်ရွာနှင့်အဆက်အသွယ်ရှိသော ကျောင်းတိုက် စာသင်တိုက်များသို့ ဦးတည်၍ဝင်ရောက်ကာ နေထိုင်ကြစာသင်ကြရမြဲဖြစ်သော်လည်း၊ အရှင် ဉာဏမှာ 'စာသင်ရပြီးရော၊ ဘယ်ကျောင်းတိုက်နေရနေရ' ဟူသောစိတ်ဖြင့် မန္တလေးမြို့သို့ အသိအကျွမ်းမရှိဘဲရောက်လာခြင်းဖြစ်ရာ တစ်ကျောင်းပြီးတစ်ကျောင်း တစ်တိုက်ပြီးတစ်တိုက် နေထိုင်ခွင့်ရရှိရန် လှည့်လည်စုံစမ်းလာခဲ့ရာမှ စာတော်ပြန်ပွဲကျင်းပရာ သုဓမ္မာဇရပ်တန်းအနီးရှိ မဟာဇောတိကာရာမရတနာဘုံစံစံကျောင်းတိုက်ကြီးသို့ဆိုက်ရောက်ခဲ့ပါသည်။ စာပေကိုလိုလား သော အရှင်ဉာဏ၏စိတ်တွင်း၌ ဤသို့စာသင်စာချနာမည်ကျော်သော စံကျောင်းတိုက်ကဲ့သို့ စာသင်တိုက်ကြီးမျိုး၌သာ အကယ်၍နေခွင့်ရလျှင် နေလိုသောဆန္ဒရှိခဲ့သည်။

ထိုအချိန်က စံကျောင်းတိုက်ကြီး၌ 'သုဒဿနဝရဓမ္မသာမိ မဟာဓမ္မရာဇာဓိရာဇဂုရု' တံဆိပ်တော်နှင့် 'သုဒဿနဇ အတုလအဓိပတိ သီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု'တံဆိပ် တော်နှစ်ထပ်ရ တတိယစံကျောင်းဆရာတော်ဘုရားကြီးဦးသုဒဿနသည် များစွာသောသံဃာ ပရိသတ်တို့အား ပိဋကတ်စာပေအရပ်ရပ်တို့ကိုပို့ချလျက် အညစ်အကြေးကင်းသောကောင်းကင် အပြင်၌ ထွန်းတက်ဆဲဖြစ်သောလပြည့်ဝန်းကြီးပမာ သီတင်းသုံးတော်မူလျက်ရှိသည်။ အရှင်ဉာဏ သည် စံကျောင်းတိုက်နှင့် စံကျောင်းဆရာတော်ဘုရားကြီးအကြောင်းတို့ကိုစုံစမ်းပြီး ကြားသိသော အခါ ထိုစံကျောင်းတိုက်၌ စာသင်သားအဖြစ်ခိုလှုံခွင့်ရရန် ဆန္ဒပြင်းပြလှသည်ဖြစ်၍ တိုက်အတွင်း ဝင်ရောက်စုံစမ်းရာ 'စံကျောင်းတိုက်မှာနေလိုလျှင် ပါတိမောက်ဒွေမာတိကာ *၃ နှုတ်လွတ်ရမှ လက်ခံသည်'ဟု စည်းကမ်းချထားကြောင်းနှင့် အာမခံပုဂ္ဂိုလ်ရှိမှ တိုက်သားအဖြစ်လက်ခံကြောင်း– စသည်တို့ကိုသိခွင့်ရခဲ့လေသည်။

---

*၁ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၄၅၁)။

*၂ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၄၁၂)။

*၃ ပါတိမောက်ဒွေမာတိကာ–ဆိုသည်မှာ ဝိနည်းပိဋကတ်ပါဠိတော်လာ ဘိက္ခုပါတိမောက်နှင့် ဘိက္ခုနီပါတိမောက် ပါဠိတော် နှစ်စောင်ကို ဆိုလိုပါသည်။






မန္တလေးမြို့၊ မြောက်ပြင် မဟာဇောတိကာရာမတိုက် ရတနာပုံစံကျောင်းတော်ကြီး၏ ကမ္ပည်းနှင့်မုခ်ဦး



မြောက်ပြင် စံကျောင်းတော်ကြီးနှင့်တည်ဆောက်ပုံချင်းတူသော
မဟာတုလွတ်ဘုံသာစလင်းကျောင်းကြီး(၁၃၀၆-ခုနှစ်တွင်ပျက်စီးသည်)



တတိယစံကျောင်းဆရာတော်ကြီး
ဦးသုဒဿန



လယ်တီဆရာတော်ကြီး ဒွေမာတိကာအဂုံကျက်ခဲ့ရသော
မဟာခေမိကာရာမသစ်ဆိမ့်ကျောင်း

သက္ကရာဇ် ၁၂၂၉–၁၂၃၀ (အေဒီ ၁၈၆၇–၆၈)ခုနှစ်ခန့်အခါက စံကျောင်းတိုက်အပါအဝင် မန္တလေးရွှေမြို့တော်လေးပြင်လေးရပ်ရှိ ကျောင်းတိုက်ကြီးအချို့တို့တွင် ရဟန်းဖြစ်လျှင် 'ပါတိမောက်ဒွေမာတိကာ'၊ ရှင်သာမဏေဖြစ်လျှင် 'ပစ္စဝေက္ခဏာ, လိင်, ဒဏ်, သေခိယ၊ ခန္ဓကဝတ်,ဒွတ္တိံသကာယပါဠိနှင့်အနက်'တို့ကိုနှုတ်လွတ်ရမှ တိုက်သားအဖြစ်လက်သင့်ခံလေ့ရှိရာ အရှင်ဉာဏသည် ပါတိမောက်ဒွေမာတိကာကို နှုတ်လွတ်အာဂုံမရသေးသည့်အတွက် စံကျောင်းတိုက်၌ တိုက်သားအဖြစ်ဝင်ရောက်နေထိုင်ရန် အခက်ကြုံရရှာလေသည်။ ဤသို့အခက်အခဲဖြစ်နေစဉ်အချိန်တွင် စံကျောင်းတိုက်သို့ခေတ္တရောက်လာသော မြောက်ပြင်သစ်ဆိမ့်တိုက်က မြင်းခြံဇာတိဘုန်းကြီးဦးရွှေဝသည် အရှင်ဉာဏကိုမြင်လျှင်မြင်ချင်း မေတ္တာရှေ့ရှုရင်းနှီးသမှုဖြင့် အရှင်ဉာဏ၏အခက်အခဲကိုသိမြင်ပြီး သစ်ဆိမ့်တိုက်သို့လိုက်ပါ၍ ဒွေမာတိကာကျက်ရင်း ခေတ္တသီတင်းသုံးပါရန်ဖိတ်ခေါ်သောကြောင့် အရှင်ဉာဏသည် သစ်ဆိမ့်တိုက်သို့လိုက်ပါသွားခဲ့ရသည်။[*၁]

**သစ်ဆိမ့်ကျောင်းတိုက်**

မဟာခေမိကာရာမသစ်ဆိမ့်တိုက်သည် မန္တလေးတောင်၏အနောက်မြောက်ယွန်းယွန်းတွင် တည်ရှိလေသည်။ ရတနာဘုံစံကျောင်းတိုက်နှင့်မဝေးလှပေ။ သစ်ဆိမ့်တိုက်သည် ကျယ်ဝန်းပြီး ကျောင်းတိုက်ကြီးအရှေ့ထိပ်၌ တိုက်ဦးစေတီ၊ မုခ်ဦးကျောင်း၊ ပခန်းကျောင်း၊ ဝန်စာရေးကျောင်းနှင့် ဦးပွားကျောင်းဟုရှိခဲ့၏။ တိုက်သံဃာအပါး–၁၀၀ ကျော်သီတင်းသုံးလျက်ရှိသော ကျောင်းတိုက်ကြီးလည်းဖြစ်၏။ အရှင်ဉာဏခေတ္တတည်းခိုနေထိုင်စဉ်အခါ သစ်ဆိမ့်တိုက်၌ ပညာသီဟ သာသနာလင်္ကာရမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ရ ဒုတိယသစ်ဆိမ့်ဆရာတော်အရှင်ပညာသီဟ အုပ်ချုပ်လျက်ရှိ၏။[*၂]

ထိုစဉ်အခါက သစ်ဆိမ့်တိုက်အတွင်း၌ ရေစကြိုဆရာတော်ကြီးဟု နောင်အခါကျော်ကြားလာမည့် အရှင်ဂန္ထသာရမထေရ်မြတ်သည်လည်း နေ့ဝါညဝါစာဝါများကိုပို့ချပေးနေတော်မူ၏။[*၃] အရှင်ဉာဏသည် ဘုန်းကြီးဦးရွှေဝ[*၄] ကိုအမှီပြု၍ သစ်ဆိမ့်တိုက်တွင် ခေတ္တသီတင်းသုံးတော်မူလျက် ဒွေမာတိကာကိုကျက်မှတ်တော်မူခဲ့ပါသည်။

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၂၃)။

*၂ လှသမိန်၏ဂန္ထဝင်ပုဂ္ဂိုလ်ကျော်များအတ္ထုပ္ပတ်။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၁–ခုနှစ်။ (စာမျက်နှာ–၉၀)။ သစ်ဆိမ့်တိုက်ပထမဆရာတော်ကြီးမှာ ရှင်ဓမ္မဖြစ်ပြီး၊ မဟာရာဇဝင်ဋီကာပါဠ်၌နိသျကျမ်းပြုဖြစ်သည်။ သက္ကရာဇ် ၁၂၁၃ (အေဒီ–၁၈၅၁)ခုနှစ်၌ ပြန်လွန်သည်။

*၃ အရှင်ကေလာသ၏ ရေစကြိုဆရာတော်ဘုရားကြီးအရှင်ဂန္ထသာရ၏ မဟာထေရုပ္ပတ္တိ ဒီပိကာ။ ဗုဒ္ဓသာသနအဖွဲ့၊ ရန်ကုန်မြို့။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ–၁၀၄)။

*၄ ဘုန်းကြီးဦးရွှေဝကား နောင်အခါ မြင်းခြံမြို့ မင်းကျောင်းတိုက်ကြီး၏ တိုက်အုပ်ဘုန်းကြီးဖြစ်၏။ ထိုဘုန်းကြီးဦးရွှေဝကိုယ်တိုင်က 'မိမိသည် စံကျောင်းတိုက်၌ လယ်တီဆရာတော်ကြီး ပညာသင်နေစဉ်က စာသင်ဖက်ဖြစ်ခဲ့သည်–ဟု မင်းကွန်းတိပိဋကဓရဆရာတော်ကြီးအား မိန့်ကြားတော်မူဖူးပါသည်။ ထိုအကြောင်းကို တိပိဋကဓရဆရာတော်ကြီးက စာရေးသူအား တစ်ဖန်ပြန်လည်အမိန့်ရှိတော်မူခဲ့ခြင်းဖြစ်ပါသည်။

မင်းတုန်းမင်းကြီး၏ ဓမ္မဝိနယအမိန့်တော်

မင်းတုန်းမင်းကြီးသည် သာသနာတော်သန့်ရှင်းတည်တံ့ပြန့်ပွားရေးကို အထူးလိုလားတောင့်တတော်မူသဖြင့် မင်းအဖြစ်သို့မရောက်မီ လွှတ်တက်မင်းသားဘဝကပင် ရွှေဘိုမြို့တောင်ဘက် ခေါ်တောရွာအနောက် ငြိမ်းကုန်းခေါ် ကောင်းပင်ကုန်းတောရကျောင်းနေ ရှမ်းကလေးကျွန်းဆရာတော်အရှင်နန္ဒနှင့် ရွှေကျင်ဆရာတော်လောင်းလျာအရှင်ဇာဂရတို့အား ဆရာဒကာချင်း သာသနာတော်တိုးတက်အောင် ဆောင်ရွက်ရေးကိစ္စများဆွေးနွေးတိုင်ပင်ခဲ့ဖူးသည်။ *၁ မင်းတုန်းမင်းကြီးသည် မုဒ္ဓါဘိသိက်ခံမင်းကြီးအဖြစ်ရောက်ရှိတော်မူလာသောအခါ သာသနာကိုစိတ်တိုင်းကျချီးမြှင့်ထောက်ပံ့နိုင်ပြီဖြစ်ရကား ရှေးယခင်အိမ်ရှေ့စံစဉ်ကတိုင်ပင်ဖူးရှိခဲ့သည့်အတိုင်း ရှမ်းကလေးကျွန်းဆရာတော်အရှင်နန္ဒအား 'ဝိနည်းပါဠိတော်,အဋ္ဌကထာ,ဋီကာကျမ်းတို့နှင့်အညီ အလဇ္ဇီဓမ္မ (အကျင့်ပျက်ရှင်လူတို့ကျင့်သောအကျင့်တရား)တို့ကို ရေးသွင်းတော်မူပါ'ဟု လျှောက်ထားတောင်းပန်၏။

ရှမ်းကလေးကျွန်းဆရာတော်သည် မင်းတုန်းမင်းကြီး၏ဆန္ဒအတိုင်း ဝိနည်းပါဠိတော်, အဋ္ဌကထာ,ဋီကာကျမ်းဂန်တို့နှင့်အညီ အကျင့်ပျက်ရှင်လူတို့ကျင့်သော အလဇ္ဇီဓမ္မတို့ကိုထုတ်နုတ်ရေးသားပြီး နန်းတော်သို့သွင်းတော်မူသည်။ မင်းတုန်းမင်းကြီးသည် အမရပူရရွှေနန်းတော်မှန်စီဆောင်၌ သာသနာပိုင်ဆရာတော်ဦးဉေယျ၊ ခင်မကန်ဆရာတော်ကြီးဦးမဏိဇောတ၊ ဘုံကျော်ဆရာတော်ကြီးဦးပညာသာမိ၊ ဗားကရာဆရာတော်ကြီးဦးပညာဇောတ၊ ပြည်ဆရာတော်ကြီးဦးမေဓာဘိဝံသ၊ စံကျောင်းဆရာတော်ကြီးဦးစန္ဒိမာ၊ ထီးလင်းဆရာတော်ကြီးဦးဝိရိယနှင့် သင်္ဂဇာဆရာတော်ကြီးဦးအဂ္ဂဓမ္မတို့ရှေ့၌ ရှမ်းကလေးကျွန်းဆရာတော်တင်သွင်းသော အလဇ္ဇီဓမ္မစာတမ်းကိုဖတ်စေပြီး 'ဝိနည်းပါဠိတော်,အဋ္ဌကထာ,ဋီကာဘုရားဟောကျမ်းဂန်များနှင့်ညီပါ၏လော'ဟု မေးလျှောက်တော်မူသည်။

သာသနာပိုင်ဆရာတော်ကြီးနှင့်တကွ ဆရာတော်တို့က ဘုရားဟောတော်မူသောဝိနည်းပါဠိတော်နှင့် အဋ္ဌကထာ,ဋီကာကျမ်းများနှင့်ညီညွတ်ဟုတ်မှန်ကြောင်းအမိန့်ရှိကြသည်နှင့် ၁၂၁၇–ခုနှစ်၊ တပို့တွဲလဆန်း ၁၀–ရက် (အေဒီ–၁၅၊ ဖေဖော်ဝါရီလ၊ ၁၈၅၆–ခုနှစ်)တွင် ဤအလဇ္ဇီဓမ္မ ၂၁–ချက်ကိုပင် ကျင့်သုံးသူတို့အား ကိုးကွယ်ဆည်းကပ်ခြင်းမပြုရန် 'ဓမ္မဝိနယအမိန့်တော် ပြန်တမ်းကြီးခေါ် သာသနာပြုရာဇအမိန့်တော်' ကို ထုတ်ပြန်တော်မူသည်။ *၂ ဓမ္မဝိနယအမိန့်တော်ပြန်တမ်းအရ ထိုအခါက ကျောင်းတိုက်များတွင် တိုက်သံဃာအဖြစ်ဝင်ရောက်လိုပါက ဒွေမာတိကာဝိနည်းစာများကို နှုတ်လွတ်အာဂုံရအောင်ကျက်ကြရသည်။ ဤသို့ဒွေမာတိကာကျက်ရမှုနှင့် စပ်လျဉ်း၍ စကားတစ်ရပ်ရှိပြန်သည်မှာ ဤသို့ဖြစ်ပါသည်။

မန္တလေးတောင်တော်ထက်၌ မြတ်စွာဘုရားရှင်၏ပကတိအမြင့် ၁၈–တောင်အရပ်တော်ပမာဏအတိုင်း ဗျာဒိတ်ပေးဟန်ရွှေရုပ်တော်ကြီးတစ်ဆူကို ကျွန်းသားဖြင့်ထုလုပ်ပူဇော်ထားရှိ၏။

---

*၁ ဦးမာနိတသိရီ၏ ပထမရွှေကျင်ဆရာတော်။ ရွှေကျင်စာပေထိန်းသိမ်းရေးအဖွဲ့၊ မန္တလေးမြို့။ ၁၉၉၄–ခုနှစ်၊ (စာမျက်နှာ–၄၅)။

*၂ ဦးမာနိတသိရီ၏ ပထမရွှေကျင်ဆရာတော်။ ၁၉၉၄–ခုနှစ်။ (စာမျက်နှာ ၅၀–၅၁)။ ROB, IX. Page 433-438.

မန္တလေး တောင်ခြေဂန္ဓကုဋီတိုက်၌ ကျောက်တော်ကြီးဆင်းတုတော်ကြီး ကိန်းဝပ်စမွယ်နေတော်မူခဲ့ပါသည်။ ထိုဘုရားကိုယ်တော်ကြီးနှစ်ဆူတွင် မန္တလေးတောင်တော်ထိပ်ရှိ ဗျာဒိတ်ပေးကိုယ်တော်ကြီး၏ ဆန့်ထားသောလက်ညှိုးတော်တွင် ရသေ့ဆောင်းဒေါက်ချာကြီးတစ်လုံး ချိတ်ထားပြီး ထိုဒေါက်ချာကြီး၌ 'တောင်အောက်ကမောင်ဖြူ၊ ပါတီမောက်ရရဲ့လား?၊ မရရင်ဒီမှာမနေရ' ဟူသောစာသားကို ရေးသားထားရှိ၏။ တောင်ခြေ၌ ကျောက်တော်ဘုရားကြီးသည် စကျင်ကျောက်ဖြူသားဖြင့် ထုလုပ်ထားသဖြင့် 'မောင်ဖြူ' ဟုဆိုခြင်းဖြစ်သည်။ တဖန် ကျောက်တော်ကြီးဘုရား၏ရင်ခွင်တော်ထက်၌ ဒေါက်ချာကြီးတစ်လုံးတင်ထားပြီး ထိုဒေါက်ချာကြီးပေါ်၌ 'တောင်ပေါ်ကမောင်ညို၊ ပါတီမောက်တော့မရ၊ သတ္တိရှိက ရေငုပ်ပြိုင်မည်' ဟူသော စာသားတို့ကိုရေးထား၏။ ဗျာဒိတ်ပေး ရွှေရုပ်တော်ကြီးမှာ ကျွန်းသားဖြင့်ထုလုပ်ထားသော ကိုယ်တော်ကြီးဖြစ်၍ ညိုသောအဆင်းရှိရကား 'မောင်ညို' ဟုရေးခြင်းဖြစ်ပါသည်။*၁

စံကျောင်းတိုက်သားအရှင်ဥာဏ

အရှင်ဥာဏသည် ဒွေမာတိကာကိုနှုတ်လွတ်ရသော် စံကျောင်းတိုက်၌ တိုက်သားအဖြစ်ဝင်ရောက်နေထိုင်ခွင့်ရလေသည်။ ဝါဝင်တော့မည်ဖြစ်သဖြင့် စံကျောင်းတိုက်ကြီးတွင် ဝါဆိုသံဃာစာသင်သားရဟန်းတို့ပြည့်နှက်စည်ကားနေရကား ကျိန်းစက်ရာနေရာမကျန်တော့သဖြင့် ဝါဆိုမီရုံရောက်ရှိလာသော အရှင်ဥာဏအဖို့မှာ သံဃာတော်များ၏ခြေရင်း သောက်ရေအိုးစင်အစပ်ရှိနေရာကလေးကို ခက်ခက်ခဲခဲတောင်းယူရရှိခဲ့ပါသည်။ ထိုနေရာမှာ သောက်ရေအိုးစင်များထားရှိရာနေရာဖြစ်သောကြောင့် တစ်နေ့လုံးကြမ်းခင်းမှာရေစိုနေပြီး နေ့ဘက်၌နေ၍မဖြစ်ဘဲ ညဘက်သို့ရောက်မှသာ ရေကိုခြောက်အောင်သုတ်, ရွာမှပါလာသောသားရေနွယ်တစ်ပိုင်းပြတ်ခင်း၍ ဝါးပိုးခြမ်းကြီးခေါင်းအုံးကာ ကျိန်းစက်တော်မူရပါသည်။ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် စံကျောင်းတိုက်သို့ရောက်တော်မူစအချိန်က မိမိတွေ့ကြုံရသောအခက်အခဲတို့ကိုတပည့်လယ်တီဦးဝဏ္ဏိတအား ဤသို့မိန့်ကြားတော်မူခဲ့ပါသည်။

'ရွှေမြို့တော်စံကျောင်းတိုက်သို့ရောက်ပြန်ပါတော့လဲ ဒွေမာတိကာကိုကျေပွန်စွာရဦးမှကွဲ့၊ ဒွေမာတိကာရ၍နေခွင့်ရသော်လည်း နေရာထိုင်ခင်းအတွက် အခက်ကြုံရသေးတယ်ကွဲ့။ ငါ့မှာနေစရာမရှိ၍ သံဃာတော်များ၏ခြေရင်း သောက်ရေအိုးအနီး တစ်နေရာစာအိပ်လောက်ရုံမျှသာရတယ်ကွဲ့။ အခင်းကတော့ ရွာကပါလာတဲ့သားရေနွယ်လေးတစ်ချပ်ခင်း၍ ခေါင်းအုံးကတော့ ဝါးပိုးခြမ်းကြီးတစ်ခုကို အုံးရတယ်၊ သားရေနွယ်ကလေးကလဲ မလုံမလောက်တစ်ပိုင်းပြတ်ဖြစ်နေလို့ ခဝဲဖျာကြမ်းကြီးတစ်ပိုင်းပြတ်တစ်ခုကိုရ၍ ဆက်ခင်းပြီး အိပ်ရတယ်ကွဲ့။ တစ်ခါတစ်ရံသံဃာတော်များကရေသောက်ပြီး ရေကျန်ကိုတခြားလွှတ်ရာမှာမသွန်ဘဲ ငါအိပ်မည့်နေရာကိုသွန်ထားကြလို့ တစ်ခါတစ်ရံ ရေစိုထဲမှာအိပ်ရတယ်ကွဲ့'–ဟူ၍ဖြစ်ပါသည်။*၂

*၁ လူထုဒေါ်အမာ၏ ကမ္ဘာ့အကြီးဆုံးကျောက်ဆင်းတုတော်။ ကြီးပွားရေးပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၉၆–ခုနှစ်။ (စာမျက်နှာ–၂၆)။

*၂ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၂၃)။

စံကျောင်းတိုက်၌ ညဥ့်ဘုရားဝတ်တက်သောအခါ ဒွေမာတိကာကို သုံးပိုင်းပိုင်း၍ ရွတ်ဆိုမြဲထုံးစံရှိ၏။ ရှင်ဉာဏသည် တိုက်သားသစ်ရဟန်းငယ်ဖြစ်၍ နောက်ပိုင်းကနေ၍ရွတ်ဆိုရ၏။ ထိုအခါ အကြဲတစ်ခုဖြစ်သည်မှာ ပါဠိမောက်အတိုင်သမားဖြစ်အောင် အသံကျယ်ကျယ်နှင့် ရွတ်ဆိုရသော် အထူးမပြန်ဆိုရဘဲ ကျေပွန်စွာရလိမ့်မည်ဟု ညစဉ်ဘုရားဝတ်တက်တိုင်း အသံကျယ်ကျယ်နှင့်ရွတ်ရာ မကြာမီမှာပင် ပါဠိမောက်အတိုင်သမားဖြစ်၍ ရှေ့တန်းကနေရာရခဲ့လေသည်။[*၁]

ရတနာဘုံစံ စံကျောင်းတိုက်

မင်းတုန်းမင်းတရားကြီးသည် သက္ကရာဇ်–၁၂၂၁ (အေဒီ–၁၈၅၉)ခုနှစ် အမရပူရမြို့တော်ဟောင်းမှ ရတနာပုံမန္တလေးရွှေမြို့တော်သစ်သို့ရွှေ့ပြောင်းရာတွင် မိမိ၏ငယ်ဆရာဖြစ်သောဆရာတော်ဦးစန္ဒိမာသီတင်းသုံးတော်မူရန် ရတနာပုံရွှေမြို့တော်သစ်၏မြောက်မျက်နှာ မန်းဦးတံခါးအထွက် လမ်းအရှေ့ဘက်၌ လေးဆယ့်ငါးတာပမာဏရှိသောမြေကွက်ကိုရှင်းလင်းစေပြီး ကျောင်းရံ ၂၀–ကျော်နှင့်တကွ ကျောင်းတော်ကြီးတစ်ဆောင်ကိုဆောက်လုပ်ခဲ့သည်။ ကျောင်းတော်ကြီးဆောက်လုပ်ပြီးသော် တိုက်ကြီးကို 'မဟာဇောတိကာရာမ'၊ ကျောင်းကို 'ရတနာဘုံစံ စံကျောင်းတော်'ဟု သမုတ်တော်မူခဲ့၏။[*၂] အရပ်က 'စံကျောင်း'ဟုပင်အလွယ်ခေါ်ခဲ့ကြသည်။

---

*၁ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၂၀)။

*၂ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၉)။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၄၇)။ ဦးမောင်မောင်တင်(မဟာဝိဇ္ဇာ)၏ မန္တလေးရပ်ကွက်သမိုင်း။ နိုင်ငံသမိုင်းသုတေသနစာစောင်၊ အမှတ်–၂။ (စာမျက်နှာ–၁၁၃)စသည်တို့၌ 'ဤစံကျောင်းတိုက်သည် အမရပူရမြို့အနောက်မြောက်ဘက်တက်သေးအင်းနံဘေးရှိ ရေနန်းတော်ကိုဖျက်ယူပြီး ကျောင်းတော်အဖြစ်ဆောက်လုပ်ခြင်းကြောင့် မူလက ရှင်ဘုရင်စံတော်မူရာရေနန်းတော်ကိုအစွဲပြု၍ 'စံကျောင်းတော်'ဟုခေါ်ဆိုရခြင်းဖြစ်ကြောင်း– ရေးသားဖော်ပြထားကြပါသည်။ တိုက်စိုး၏ မင်းတုန်းမင်း။ ရာပြည့်စာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၉၈–ခုနှစ်။ (စာမျက်နှာ–၅၄)၌မူ– 'မင်းတုန်းမင်းသည်မြို့မြောက်မျက်နှာ မန်းဦးတံခါးအထွက် လမ်းအရှေ့ဘက်တွင် မဟာဇောတိကာရာမတိုက် ရတနာပုံစံကျောင်းအမည်ဖြင့်ကျောင်းသစ်ဆောက်ရာ ငယ်ဆရာရှင်စန္ဒိမာကိုလှူခဲ့လေသည်'ဟု 'ကျောင်းသစ်ဆောက်လှူကြောင်း' ဖော်ပြထား၏။

ပထမစံကျောင်းဆရာတော်ဦးစန္ဒိမာသည် အမရပူရမြို့ဟောင်းမှာ သီတင်းသုံးစဉ်အခါကပင် 'စံကျောင်းဆရာတော်'ဟုခေါ်တွင်ပြီးဖြစ်၍၊ စံကျောင်းဆရာတော်ဦးစန္ဒိမာသီတင်းသုံးသောကြောင့် ကျောင်းကိုလည်း 'စံကျောင်း'ဟု ခေါ်တွင်ဟန်ရှိသည်။ ဥပမာ– ပြည်ဆရာတော်သီတင်းသုံးရာ မဏ္ဍလာရာမတိုက်ကို ပြည်တိုက်ဟုတွင်ပုံမျိုး၊ ဗန်းမော်ဆရာတော်သီတင်းသုံး၍ ကောင်းတံ့ကျောင်းကို ဗန်းမော်တိုက်ဟုတွင်ပုံမျိုး၊ မောင်းထောင်ဆရာတော်သီတင်းသုံး၍ မင်္ဂလာရာမတိုက်ကို မောင်းထောင်တိုက်ဟုတွင်ပုံမျိုးဖြစ်ပါသည်။ သက္ကရာဇ်–၁၂၁၄ (အေဒီ–၁၈၅၂)ခုနှစ် မင်းတုန်းမင်းကြီး အမရပူရမြို့တော်၌နန်းတက်ပြီးနောက် မုန်စီဆောင်၌ ရှမ်းကလေးကျွန်းဆရာတော်သွင်းသော အလင်္ကာခမ္ဘ ၂၁–ချက်ကိုဖတ်ကြားရာ စာနာသောပုဂ္ဂိုလ်တို့တွင် 'အမရပူရနေပြည်တော် အနောက်မြောက်ထောင့်ရပ်၊ ရွှေဂူဘုရားအနီး စံကျောင်းတိုက်၌ သီတင်းသုံးလျက်ရှိသော စံကျောင်းဆရာတော်အရှင်စန္ဒိမာမထေရ်သည်လည်း' တစ်ပါးအပါအဝင်ဖြစ်လေသည်။ အရှင်သုတေသက၏ သာသနာ့ဘဝသစ်ကျမ်း။ သုဓမ္မဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၁၃–ခုနှစ်။ (စာမျက်နှာ–၄၉)။ သို့ဖြစ်၍ အမရပူရမြို့ဟောင်းရှိ ဦးစန္ဒိမာ၏ မူလကျောင်းတိုက်အမည်သည် စံကျောင်းတိုက်ဖြစ်ခဲ့၏။ ထိုမူလဖြစ်သော အမရပူရမြို့ရှိ စံကျောင်းတိုက်သာ တက်သေးအင်းနံဘေးရှိ ရေနန်းတော်ကိုဖျက်၍ ဆောက်ထားသောကျောင်းဖြစ်နိုင်သည်။

မဟာဇေတဝိကာရာမစံကျောင်းတိုက်ကြီးသည် မန္တလေးမြို့မြောက်ပြင် မဟာသကျမာရဇိန် ကျောက်တော်ကြီးမြတ်စွာဘုရားဂန္ဓကုဋိအနောက်ဘက်၌ ကပ်လျက်တည်ရှိနေပါသည်။ မဟာရံ တံတိုင်းနှစ်ထပ်ဖြင့် လွန်စွာကျယ်ဝန်းလှ၏။ မင်းတုန်းမင်းကြီးသည် စံကျောင်းတိုက်သို့ မကြာခဏလာ၍ မိမိ၏ငယ်ဆရာဦးစန္ဒိမာကိုဖူးမြော်တတ်သည့်အတွက် ဘုရင်အဝင်အထွက် ရှိသောစံကျောင်းတိုက်သည် သာသနာပိုင်ကျောင်းတမျှစည်ကားလှ၏။

စံကျောင်းတိုက်ကြီးဆောက်လုပ်ထားပုံမှာ အလွန်ခမ်းနားလှသည်။ ထိုခေတ် ရတနာပုံ မန္တလေးကိုရောက်ဖူးသော အချို့သောအနောက်နိုင်ငံသားများက စံကျောင်းတိုက်ကိုပင် သာသနာ ပိုင်သီတင်းသုံးရာတိုက်တော်ဟုမှတ်ထင်တတ်လေသည်။*၁ ဤကျောင်းကြီးကို ငါးရာ့ငါးဆယ် ဇာတ်လာရုပ်လုံးတို့ဖြင့်တန်ဆာဆင်ပြီး မုခ်ထွတ်ပြာသာဒ် ၁၆–ဆူ၊ တောင်ပြာသာဒ်ရှစ်ဆူနှင့် ကျောင်းဦးပြာသာဒ် စမြင်လေးဘက်လှည့် စနု, ဘောဂ, ဆောင်မ, မာရဘင်ဆီးရွှေကျောင်း တော်ကြီးကို စကြံပြာသာဒ်သုံးဆောင်တို့နှင့် တင့်တင့်တယ်တယ်ဆောက်လုပ်ထားခြင်းဖြစ်သည်။ ကျောင်းကြီးပြင်ထပ်၌ ကျောင်းရံပေါင်း–၂၀ ကျော်ရံထားရာ လွန်စွာမှပန်ရလျက်ရှိလေသည်။

ကျောင်းတိုက်အတွင်းမှာလည်း သံဃာတော်အပါး–၁၀၀၀ တို့၏ စာကျက်,စာဆို,စာလှည့် သံတို့မှာလည်း နေ့ညမစဲရုတ်ရုတ်သဲမျှရှိ၏။ စာသင်သားများပြားလာသည့်အတွက် မူလက ကျောင်းရံ ၂၀–မှ ကျောင်းရံပေါင်း ၄၆–ကျောင်းရှိလာသည်ဟူ၏။ ထိုကျောင်းရံ ၄၆–ကျောင်းတွင် မင်းတုန်းမင်းကြီး၏စကြာဒေဝီမိဖုရားကုသိုလ်ကျောင်းရံတော်ကြီး၊ ယောအတွင်းဝန်မင်းကြီး၏ ကျောင်း၊ ပန်းတင်ကျောင်း၊ ခရေပင်ကျောင်း စသည်တို့လည်းပါဝင်သည်။ မင်းတုန်းမင်းကြီးက မိမိ၏ငယ်ဆရာဦးစန္ဒိမာကို ဤသို့ ရတနာကိုးပါးတို့ဖြင့်စီခြယ်မွမ်းမံထားသောစံကျောင်းတိုက်ကြီး ပေါ်တင်၍ ကိုးကွယ်ထားရှိခဲ့ပုံနှင့်စပ်၍ စလေဦးပုညက–

‘ဇမ္ဗူလယ်မှာ၊ ဆွယ်မနိုင်းသာ၊ ကံတဒေသ၊ စံကော ငါ့ဆရာဟု၊ ရတနာ ဗိမာန်၊ ဝေဇယန်လည်း၊ မတန်ရာတတ်၊ ကိုးမျက်ကယ်ချယ်ရံ၊ ပြာသာဒ်ပျံနှင့်၊ စံကျောင်းမြတ်ကို၊ လျောက်ပတ်တင့်တယ်၊ သမ္ဘာတော်ရင့်၊ ဘုန်းကျိုးငယ်ပင့်လို့၊ ချီးမြှင့်တယ် မန်းစွယ်ငယ်မှရိပ်လှို့၊ သာမျိုးပေါင်းစုံတဲ့၊ ကျောင်းရွှေဘုံ’ဟု ရေးစပ် ဖွဲ့ဆိုခဲ့ဖူးပါသည်။*၂

ရတနာပုံစံကျောင်းတော်ကြီးကို အဘယ့်ကြောင့် ‘စံကျောင်းဟုခေါ်တွင်ခဲ့ရပုံ’ နှင့်စပ်လျဉ်း၍ ဤစံကျောင်းတိုက်ကြီး၌ နှစ်ပေါင်း ၃၂–ဝါတိုင်တိုင်စွဲမြဲစွာနေတော်မူခဲ့ပြီး စံကျောင်းတိုက်၏ စာချအကျော် ဆရာတော်တစ်ပါးဖြစ်သော မိုင်းခိုင်းဆရာတော်ကြီးအရှင်ပဏ္ဍိတမထေရ်မြတ်က

---

*၁ V.C. Scott, O’ Connor’ Mandalay and Other Cities of the Past in Burma. Hutchison & Co., London. 1907. Page-48.

*၂ စလေဦးပုည၏ စံကျောင်းဆရာတော်ဦးစန္ဒိမာ ပြန်လွန်တော်မူရာ၌ဖွဲ့ဆိုသော ငိုချင်းရှည် (အပိုဒ်–၄)။ ပညာအုပ်ဦးလွင်၏ ကဗျာသင်္ဂဟမေဒနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၆–ခုနှစ်။ (စာမျက်နှာ–၂၃၁)။

တိပေဋကဝိနိစ္ဆယကျမ်း၊ ပထမတွဲတွင် အောက်ပါအတိုင်း ဝိဂြိုဟ်ဗျူပွတ်အမျိုးမျိုးကို ရေးသားထားခဲ့သည်။

'စရဏံ= ပြုပုံဖြစ်သော (ဝါ) စံပြုဖြစ်သော (ဝါ) စံပုံနည်းပြဥပဒေသဖြစ်သော၊ စိတ္တံဝ= ပန်းချီရေးကားကဲ့သို့၊ စရဏဋ္ဌပနတ္တာစေဝ= စံပြထားသောကျောင်းတော်၏ အဖြစ်ကြောင့်လည်းကောင်း၊ ရာဇဂုရူနံ=မင်းဆရာတော်တို့၏၊ အာဝါသတ္တာ စ= စံပျော်ကိန်းအောင်းရာကျောင်းတော်၏အဖြစ်ကြောင့်လည်းကောင်း။ စရဏာ ဝါသောတိ စ= စံပြကျောင်းတိုက်, စံကျောင်းတိုက်ဟူ၍လည်းကောင်း၊ ဝသနဝိဟာရော က္ကတိ စ= စံနေရာကျောင်းတော်, စံကျောင်းတော်' –ဟူ၍ ဖွင့်ပြခဲ့ပါသည်။*၁

စံကျောင်းတိုက်ကြီးစည်ကားသာယာပုံအကြောင်းကိုမူ တတိယစံကျောင်းဆရာတော် ဦးသုဒဿနသည် စူဠဝါပါဠိတော်နိဿယသစ်နိဂုံး၌ အောက်ပါအတိုင်းဂါထာဖွဲ့စီရေးထားတော်မူခဲ့ပါသည်။

တေနေဝ ဓမ္မရာဇေန၊ သမ္ပန္နသလိလာသယေ။
ဇောတိကာရာမဗ္ဘန္တ ရေ၊ နာနာဒုမသမာကိဏ္ဏေ။ ။
ကတေ သုဝဏ္ဏပါသာဒေ၊ မာလာကမ္မာဒိသောဘိတေ။
ဇာတကာ ဂတာ လက်ိ တေ၊ ရတနာဘုံစန္တိ နာမကေ။ ။

တေနေဝ ဓမ္မရာဇေန=ထိုသာသနာ့ဒါယကာ ပဉ္စမသင်္ဂါယနာတင်မဟာဓမ္မရာဇ် မင်းတရားမြတ်သည်သာလျှင်၊ သမ္ပန္နသလိလာသယေ=ချိုမြိန်သောရေ၏တည်ရာဖြစ်သော ရေတွင်းရေကန်ရှိထသော၊ နာနာဒုမသမာကိဏ္ဏေ= အပွင့်အသီးကိုဆောင်သော အထူးထူးသောသစ်ပင်တို့ဖြင့်ပြွမ်းထသော၊ ဇောတိကာရာမဗ္ဘန္တ ရေ= မဟာဇောတိကာရုံကျောင်းတိုက်အတွင်း၌၊ ကတေ=ဆောက်လုပ်အပ်သော။ မာလာကမ္မာဒိသောဘိတေ=ခြူးပန်းခြူးနွယ်စသည်တို့ဖြင့်တင့်တယ်သော၊ ဇာတကာဂတာ လက်ိ တေ= ငါးရာ့ငါးဆယ်ဇာတ်၌လာသောအရုပ်မျိုးတို့ဖြင့် တန်ဆာဆင်အပ်သော၊ ရတနာဘုံစန္တိ နာမကေ=မဟာရတနာဘုံစံဟူသောအမည်ရှိသော၊ သုဝဏ္ဏပါသာဒေ= ရွှေပြာသာဒ်ကျောင်း' –ဟုဖြစ်သည်။*၂

အထက်၌ဖော်ပြခဲ့သောစာသားတို့အရဆိုလျှင် ရတနာဘုံစံ စံကျောင်းတိုက်ကြီးသည် ဥယျာဉ်သစ်သီးပန်းမာလ်များ၊ ရေတွင်းရေကန်များ၊ ပန်းပုလက်ရာအပြောက်အမွမ်း၊ ခြူးပန်းခြူးနွယ်တို့ဖြင့်တန်ဆာဆင်အပ်သော ကျောင်းတော်ကြီးအဖြစ်ကိုမြင်ယောင်နိုင်ဖွယ်ရှိလေသည်။

---

*၁ မိုင်းနိုင်းဆရာတော်ကြီး၏ တိပေဋကဝိနိစ္ဆယကျမ်း၊ ပထမတွဲ။ မန္တ လေးတိုင်းသတင်းစာပုံနှိပ်တိုက်၊ မန္တ လေးမြို့။ ၁၉၀၀–ပြည့်နှစ်။ (စာမျက်နှာ–၆၀၅)။

*၂ မင်္ဂလာစံကျောင်းဆရာတော်၏ စူဠဝါပါဠိတော်နိဿယသစ်၊ ဒုတိယတွဲ။ ပဒေသာပိဋကတ်စာအုပ်ဆိုင်၊ မန္တ လေးမြို့။ ၁၃၅၄–ခုနှစ်။ (စာမျက်နှာ–၂၉၀)။

စံကျောင်းတိုက်ကြီး၌ စာချဘုန်းကြီးအဖြစ်သီတင်းသုံးနေထိုင်ခဲ့ဘူးသော အရှင်နန္ဒိယ*၁ ကလည်း စံကျောင်းတိုက်ကြီး၏ကြီးကျယ်ခမ်းနားလှပပုံတို့ကို ဓားမဘွဲ့မေတ္တာစာတွင် အောက်ပါ အတိုင်း ရေးသားဖွဲ့ဆိုထားခဲ့ပါသည်။

သုဒဿန, အာယုဇ္ဇဘူမိန်, သူရိန္ဒရာ, ဝတိန်သာဗွေညွန့်, ရောဝဏ်သခင်,
နတ်ဘုရင်ဗိမာန်နှင့်, ပုံသဏ္ဌာန်တူမကွာ, ရွှေမန်းမြို့ရတနာ, ရှေ့မြောက်ယွန်းဒိသာ,
နက်ဘုမ္မိမြေချာဝယ်, ပေါင်းရာဇာနေနတ်, သမုတိမင်းမြတ်က, သဒ္ဓါတော်
ထူးလတ်၍, ဆောက်လှူအပ်ဘုံပျံ, ကျောင်းတော်မြတ်ဗိမာန်, ဝဲလက်ျာနံရံမှာ,
အနဂ္ဃအဘိုးတန်, ဖလ်ပွတ်လုံးခြယ်စီမံ, ရွှေရောင်ကတလျှံလျှံ, ဘုံပြာသာဒ်
မှန်ပြာသာဒ်, အရောင်ချင်းကူးစပ်လျက်, နဝရတ်မြတတန်, ပြာသာဒ်တွေ ဝန်းရံ,
ထူးဆန်းလှအတန်တန်, ဝိသကြုံရှင်နတ်မင်းတို့, ဆင်းတည့်၍ဖန်သလို, စိန်မှန်ရောင်
မြဖလ်ရောင်, ပြိုးရရိုးပြောင်ရရောင်, တောက်လောင်လှဘနန်း, နီလာရောင်
ယှက်သန်းလျက်, ပန်းဆိုင်းကအဆိုင်ဆိုင်, ယိုးဒယားသဇင်ခိုင်, ဝေလို့သာ
မြိုင်တော့သည်, ပြိုင်ရရိုင်တခဲနက်, ရွှေသည့်တိုင်မျက်နှာကြက်မှာ, မြကြိုးလိမ်
လည်ယှက်၍, ဖူးငွေရွက်သန္တာရောင်, ပြောင်ရရောင် ထိန်ရရိန်, ဂီဝါကွက် နဂါးလိမ်,
ပုဆစ်အိမ်ကြက်ခြေခတ်, ဒေါင့်တန်းဖြတ်မကာရ်းချယ်, ခရမ်းနွယ်မြခက်မှာ,
ပန်းကြွတွေရောယှက်လျက်, ပန်းကိုက်ငှက်စီရရီ, အထက်ဆီ အောက်တခိုမှာ,
ဝိဇ္ဇာမိုရ်ဖော်ဂျီပျံ, အဂ္ဂိရတ်ငွေလုပ်ဟန်, ဖလ်ကူဝလိုဏ်ရံမှာ, ဖိုထီးဟန်ခဲချိုးဟန်,
အဂ္ဂိရတ်သမားတို့, ကစားကြပုံသဏ္ဌာန်, နတ်ဘီလူး နတ်ဂုမ္ဘာန်, နယားပျံစက်ရုပ်နှင့်,
စနုမုခ်ဆောင်တော်ကူးမှာ, ထူးလှသောရုပ်ပုံတွေကို, သုတ်လေဆော်ဖြန်းလျှင်,
လှမ်းတည့်၍ခုန်မလို, ဇာခြူးအုံသဇင်ခက်မှာ, ငှက်ရွှေကျေးခမြာတို့ကလည်း, ပျူငှာသံ
မူယာသံ, မြူးပျော်ကြပုံသဏ္ဌာန်, စိန်ဖူးတန်မြခက်မှာ, ရွှေကြိုးလိမ်လည်ယှက်၍,
ပန်းရွက်ချင်းအထပ်ထပ်, အမြိတ်ချင်းစပ်ခမန်း, မြင်သူတို့လွမ်းစရာ, ဇောပီတိ
ရွှန်းစရာ, လွန်ဆန်းကြယ်သာယာသော, မင်္ဂလာရွှေဘုံ, ကျောင်းတော်မြတ်
သိရ်ဂုဏ်ကို, ဤလူ့ဘုံဌာန, ဥဒါဟရုဏ်ရှာမရသော, ဇေတဝိကာရာမ, နာမသမိုက်,
စံကျောင်းတိုက်’ –ဟူ၍ဖြစ်ပါသည်။*၂

ရှေးကပြောရိုးစကားစဉ်တစ်ရပ်ရှိခဲ့သည်မှာ ‘မင်းတုန်းမင်းတရားကြီးသည် မိမိ၏ငယ်ဆရာ ဦးစန္ဒိမာကို သာသနာပိုင်တင်မြှောက်ရန်အခွင့်မသာခဲ့သဖြင့် ပြာသာဒ်ထိပ်ဖျားမှအောက်တိုင်ခြေ

*၁ ဤအရှင်နန္ဒိယသည် နောင်အခါ ရမည်းသင်းမြို့ ရွှေစောလူးဆရာတော်ကြီး–ဟူ၍ ထင်ရှားတော်မူခဲ့ပါသည်။ ဆင်ကျုံး ဆရာတော်၏ ရမည်းသင်းခရိုင်သာသနာဝင်သမိုင်း။ အောင်သစ္စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၉၆–ခုနှစ်။ (စာမျက်နှာ–၅၁)။

*၂ ဆင်ကျုံးဆရာတော်၏ ရမည်းသင်းခရိုင်သာသနာဝင်သမိုင်း။ ၁၉၉၆–ခုနှစ်။ (စာမျက်နှာ–၅၅)။

အထိ ရွှေအပြည့်ချထားသော ဤစံကျောင်းကြီးကိုဆောက်လုပ်လှူဒါန်းခြင်းဖြစ်သည်'–ဟူ၍ ဖြစ်ပါသည်။*[၁]

ဤစံကျောင်းတိုက်ကြီးသည် ကြီးကျယ်ခမ်းနားလွန်းလှသဖြင့် စံကျောင်းတိုက်ထွက်ပုဂ္ဂိုလ်အချို့သည် မိမိတို့နေခဲ့ရသောစံကျောင်းတိုက်ကြီးကိုတွယ်တာမြတ်နိုးလွန်းသဖြင့် မိမိတို့ရပ်ရွာတွင် ကျောင်းဆောက်ခွင့်ရကြသောအခါ စံကျောင်းတိုက်ကြီးနှင့်ပုံတူအောင်ဆောက်လုပ်ခဲ့ကြသည်။ သာဓကပြရလျှင် စံကျောင်းဆရာတော်ကြီးဦးသုဒဿန၏တပည့်အရှင်အာဒိစ္စသည် နောင်အခါ မိတ္ထီလာခရိုင် ဝမ်းတွင်းမြို့နယ်ရှိ သဲတောမြို့ကလေးတွင် မန္တလေးစံကျောင်းတိုက်ပုံစံအတိုင်း ဆောက်လုပ်ကာ စံကျောင်းတိုက်ဟုကမ္ပည်းတင်ခဲ့၏။*[၂] အချို့စံကျောင်းထွက်တို့ကမူ စံကျောင်းနှင့်အလားတူအောင်မဆောက်နိုင်သော်လည်း မိမိ၏ကျောင်းအမည်ကို စံကျောင်းတိုက်အမည်အတိုင်း ကမ္ပည်းတင်ခဲ့ပါသည်။ သာဓကပြရလျှင် စံကျောင်းဆရာတော်ဦးသုဒဿနလက်ထက် စံကျောင်းတိုက်၌ လယ်တီဆရာတော်ကြီးလောင်းလျာ ပထမစာတော်ချ အရှင်ဉာဏထံတော်တွင် တပည့်အဖြစ်နေထိုင်ခဲ့သော အရှင်ကေတုသည် မုံရွာခရိုင်၊ ချောင်းဦးမြို့နယ်၊ ခင်မွန်ကျေးရွာအုပ်စု အဝင် ပဲတောင်းကျေးရွာ၌ ကျောင်းဆောက်လုပ်ပြီးစီးသောအခါ 'မဟာဇောတိကာရာမကျောင်းတိုက်' ဟူ၍ပင် ကျောင်းအမည်ကို ကမ္ပည်းတင်ခဲ့ပါသည်။

ပထမစံကျောင်းဆရာတော်ဦးစန္ဒိမာ

စံကျောင်းတိုက်ကြီးကို ပထမဦးအလှူခံရတော်မူသောဆရာတော်မှာ ပထမစံကျောင်းဆရာတော်ဦးစန္ဒိမာဖြစ်သည်။ ဆရာတော်ဦးစန္ဒိမာသည် မင်းတုန်းမင်းကြီး၏ငယ်ဆရာဖြစ်သည်။ ပခန်းမြို့၊ ကြက်မောက်ရွာ၌ သက္ကရာဇ်–၁၁၆၀ (အေဒီ–၁၇၉၈)ခုနှစ်ကျော်ခန့်တွင် ဖွားတော်မူ၏။ သဲအင်းသာသနာပိုင်ကြီးအရှင်သူရိယ(အေဒီ ၁၇၆၃–၁၈၃၉)၏တပည့်ရင်းဖြစ်သည်။ သာယာဝတီမင်းသည် သားတော် မင်းတုန်းမင်းသားနှင့် ကနောင်မင်းသား ညီနောင်တို့ကို သာသနာပိုင်သဲအင်းဆရာတော်ကြီးထံအပ်နှံသောအခါ၊ သဲအင်းဆရာတော်ကြီးက တဖန် 'ဤမင်းသားနှစ်ပါးကို မိမိ၏တပည့် ဦးစန္ဒိမာထံသို့လွှဲပြောင်းအပ်နှံပြီး ပညာသင်ယူစေခဲ့သည်။

ဦးစန္ဒိမာက မင်းတုန်းမင်းသားကို မောင်လွင်၊ ကနောင်မင်းသားကို မောင်ခင်ဟု ငယ်နာမည်အတိုင်းသာခေါ်လေ့ရှိ၏။ မင်းတုန်းမင်းသားနှင့်ကနောင်မင်းသားတို့သည် ဆရာတော်ဦးစန္ဒိမာ၏ခြေတော်ရင်းနေထိုင်ရကာ ပညာသင်ယူခဲ့ကြရသည်။*[၃] မင်းတုန်းမင်းကြီးသည် ဦးစန္ဒိမာထံ၌ ဘုန်းကြီးကျောင်းသားဘဝအဖြစ်နေစဉ်အခါက အင်းသူကြီးဦးကြူလှူဒါန်းသောငါးခြောက်ပြားကို

---

*[၁] ကောဒသမရွှေကျင်သာသနာပိုင် အရှေ့ဝိသုဒ္ဓါရုံကြေးမြင်ဆရာတော်ဘုရားကြီး(၂၀–၄–၁၉၇၆)နေ့ မိန့်တော်မူချက်ဖြစ်သည်။

*[၂] အရှင်ကုမာရာဘိဝံသ၏ အင်းမကြီးသိမ်တောင်သာသနာဝင်။ နေလင်းပိဋကတ်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ–၂၄၂)။

*[၃] တိုက်စိုး၏ မင်းတုန်းမင်း။ ၁၉၉၈–ခုနှစ်။ (စာမျက်နှာ–၁၄)။

အသိမ်းမတတ်ခဲ့၍ ဦးစန္ဒိမာ၏ရိုက်နှက်ဆုံးမခြင်းခံရပုံကို ပြောစမှတ်ရှိ၏။*[၁] မင်းတုန်းမင်းသား သည် မင်းအဖြစ်သို့ရောက်တော်မူသောအခါ သက္ကရာဇ် ၁၂၁၆–ခုနှစ်၊ ကဆုန်လဆန်း ၁၄–ရက် (အေဒီ–၁၀၊ မေလ၊ ၁၈၅၄–ခုနှစ်)၌ မိမိ၏ငယ်ဆရာဖြစ်သောဦးစန္ဒိမာအား အင်းဝမြို့ ဗားကရာကျောင်းတိုက်အတွင်း၌ စံကျောင်းဟုအမည်တွင်ခဲ့သော ကျောင်းတစ်ဆောင်ကို ဆောက်လုပ်ကိုးကွယ်ခဲ့ပါသည်။*[၂] ထိုနှစ် ဝါဆိုလဆန်း ၂–ရက် (အေဒီ–၂၆၊ ဇွန်လ၊ ၁၈၅၄–ခုနှစ်)၌ 'စန္ဒာမာဘိသီရိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု' တံဆိပ် နာမံကို ဆက်ကပ်လှူဒါန်းပါသည်။*[၃]

မင်းတုန်းမင်းသည် သက္ကရာဇ် ၁၂၂၂–ခုနှစ် (အေဒီ–၁၈၆၀–ပြည့်နှစ်)တွင် ဗားကရာ သာသနာပိုင်ကြီး ဘဝပြောင်းတော်မူသောအခါ သာသနာပိုင်အသစ်တင်မြှောက်ရန်ကိစ္စ ပေါ်ပေါက် လာ၏။ ထိုခေတ်က များသောအားဖြင့် ဘုရင့်ငယ်ဆရာကိုသာသနာပိုင်တင်မြှောက်သော အလေ့ရှိသဖြင့် မင်းတုန်းမင်း၏ငယ်ဆရာတော်ဦးစန္ဒိမာသည် သာသနာပိုင်ဖြစ်လာလိမ့်မည်ဟု အများကမှတ်ယူနေကြ၏။

မင်းတုန်းမင်းကမူ 'သာသနာပိုင်မည်သည် ကျမ်းဂန်တတ်ရုံ၊ သီလကောင်းရုံဖြင့်မလုံလောက်၊ လောကဓမ္မနှစ်ဌာနစလုံး နိုင်နင်းသူဖြစ်ရမည်၊ သံဃာ့အရေးကို နိုင်နိုင်နင်းနင်းခန့်ခွဲတတ်ဖို့ လိုသည်၊ ပြောဆိုစရာရှိလျှင်လည်း ပိုင်ပိုင်နိုင်နိုင်ပြောဆိုရှင်းနိုင်သူဖြစ်ရမည်၊ မိမိ၏ငယ်ဆရာတော် ဦးစန္ဒိမာသည် ရိုးလွန်းသည်၊ လောကရေးရာကိုအာရုံမပြု၊ တရားဓမ္မ၌သာမွေ့လျော်၏။ ဣန္ဒြေ သိက္ခာကြီးမား၍တည်ငြိမ်၏၊*[၄] သို့ဖြစ်၍ သာသနာ့ကိစ္စအဝဝ လောကဓမ္မနှစ်ဌာနတို့၌ ပါဝင် ရသည့် သာသနာပိုင်အဖြစ်နှင့်မလျော်'ဟု ယူဆ၏။ မိဖုရားခေါင်ကြီးကိုးကွယ်သောအရှင်ဥေယျ ဓမ္မသည် ခမည်းတော်သာယာဝတီမင်းလက်ထက်ကလည်း သာသနာပိုင်ဖြစ်ခဲ့ဖူး၏၊ သံဃာ့ ပရိသတ်၌လည်း ဝင်ဆန့်၏။ စကားပြောလည်းကောင်း၏၊ မကြီးကျယ် သေးငယ်သောအကြောင်း အရာကိုလည်း ကြီးကျယ်ခမ်းနား နာချင့်စဖွယ်ဖြစ်အောင်ပြောနိုင်စွမ်းရှိသည်၊ ရုပ်နိကာယ်မှာလည်း အသားဝါဝင်း၍ စိုပြေလန်းဆန်းကာ ဥပမိကောင်း၏၊ အကြည့်တန်အောင်လည်း မဝလွန်း၊ အရပ်လည်းမမြင့်လွန်းပါဘဲ သံဃာ့အစည်းအဝေးများ၌နေတော်မူသည့်အခါ ဘယ်သူ့သာသနာ ပိုင်လဲဆိုသည်ကို မပြောပြရဘဲသိလောက်အောင် ကျက်သရေရှိသည်။*[၅] ထိုသို့သောအချက် များကြောင့် မင်းတုန်းမင်းသည် ဒုတိယမောင်းထောင်ဆရာတော်အရှင်ဥေယျဓမ္မကိုသာ သာသနာ ပိုင်အဖြစ် တင်မြှောက်ခဲ့၏။*[၆]

---

*[၁] မြကေတု၏ မင်းတုန်းမင်းနှင့်ငါးခြောက်ပြား(ဆောင်းပါး)။ နန်းဓလေ့မှတ်တမ်းများ။ ၁၉၆၆–ခုနှစ်။ (စာမျက်နှာ–၂၈၈)။

*[၂] ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၁၇၆)။ တိုက်စိုး၏ မင်းတုန်းမင်း။ ၁၉၉၈–ခုနှစ်။ (စာမျက်နှာ–၄၀)။ ဤကျောင်းကိုအစွဲပြု၍ ဦးစန္ဒိမာကို 'စံကျောင်းဆရာတော်' ဟု ခေါ်တွင်ခဲ့ကြဟန်ရှိသည်။

*[၃] ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၂၀၁)။

*[၄] လယ်တီဦးလုပိုင်၏ ပခန်းသာသနာဝင်။ ဂန္ထဝင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၈၁–ခုနှစ်။ (စာမျက်နှာ–၄၇)။

*[၅] ဆရာတော်ဦးသုဒဿန၏ မောင်းထောင်ရုပ်လုံးဖော်ဋီကာ။ ၁၉၉၈–ခုနှစ်။ (စာမျက်နှာ–၁၀၉)။

*[၆] မြကေတု၏ မင်းတုန်းဘုရင်လက်ထက်သာသနာပိုင်ဆရာတော်(ဆောင်းပါး)။ နန်းဓလေ့မှတ်တမ်းများ။ ၁၉၆၆–ခုနှစ်။ (စာမျက်နှာ–၂၆၈)။

ဤသို့ မင်းတုန်းမင်းသည် မိမိ၏ငယ်ဆရာဦးစန္ဒိမာကို သာသနာပိုင်အဖြစ် မတင်မြှောက်သည့်အတွက် ညီတော်ကနောင်မင်းသားက မကျေမနပ်ရှိလေသည်။ မင်းတုန်းမင်းက ညီတော်ကနောင်မင်းကို 'ညီခင်–တို့ဆရာတော်ကား လောကဥမကျွမ်းကျင်၊ သာသနာပိုင်နှင့်မသင့်လျော်၊ အစ်မ*၁ ၏ဆရာတော်က လောကဓမ္မအစစဥ်ပင် ကျွမ်းကျင်လိမ္မာချက်ချာသွက်လက်သည်၊ ဒါကြောင့် အစ်မရဲ့ဆရာတော်ကြီးကို သာသနာပြုအပ်နှင်းကြစို့။ ညီခင် စိတ်မချမ်းမသာမရှိလေနှင့်'ဟု ဖျောင်းဖျတော်မူခဲ့ပါသည်။*၂ အိမ်ရှေ့စံကနောင်မင်းသားလည်း နောင်တော်၏အစီအမံကိုမပယ်ရှားဝံ့၍သာလက်ခံခဲ့ရသဖြင့် နောက်ကွယ်တွင် 'ငါတို့ဆရာတော်က ရိုးသားလွန်းသောကြောင့် သာသနာပိုင်အဖြစ်နှင့်မသင့်လျော်ဘူးတဲ့၊ မမ၏ဆရာတော်က သွက်လက်ချက်ချာလိမ္မာပါးနပ်သောကြောင့် သာသနာပိုင်အဖြစ်နှင့်လျော်သတဲ့။ ရိုးသားသောကြောင့် သာသနာပိုင်ကိစ္စကို မဆောင်ရွက်နိုင်ဘူးတဲ့လား။ သာသနာပိုင်အနီးအပါးမှာ ခိုင်းစေစရာရဟန်းပညာရှိ၊ လူပညာရှိတွေ မရေမတွက်နိုင်လောက်အောင် များစွာရှိကုန်၏။ သည်ပုဂ္ဂိုလ်တွေကို ခိုင်းစေဆောင်ရွက်လျှင် ဘယ်ကိစ္စမဆိုပြီးစီးနိုင်သည်၊ သို့ပါလျက် ငါတို့ဆရာတော်ကို သာသနာပိုင်မမြှောက်နိုင်ဘူး၊ မမ၏ဆရာတော်ကို သာသနာပိုင်မြှောက်မတဲ့၊ မယားပါသာသနာပိုင်ပါကွယ်'ဟု ညည်းညူမိန့်ကြားခဲ့သည်ဟု–စကားစဉ်ရှိပေ၏။*၃

မင်းတုန်းမင်းကြီးသည် မန္တလေးမြို့သစ်တည်နေစဉ်အခါ ဆရာတော်ဦးစန္ဒိမာကို နန်းတွင်းရှိ မင်္ဂလာအိမ်တော်ကိုပင် ကျောင်းအမှတ်သီတင်းသုံးစေပြီး မိမိ၏သားတော်များကိုရှင်သာမဏေပြု၍အပ်နှံခဲ့သည်။*၄ မန္တလေးမြို့နန်းသစ်တည်ပြီးသောအခါ ရွှေမြို့တော်အရှေ့မြောက် စံကျောင်းတိုက်မြေနေရာတွင် ဆရာတော်ဦးစန္ဒိမာသီတင်းသုံးရန် ယာယီကျောင်းတော်ဆောက်လုပ်ပြီး လှူဖွယ်များနှင့် အတွင်းဝန်သံတော်ဆင့်တို့ ၁၂၂၀–ပြည့်နှစ်၊ နယုန်လဆန်း ၄–ရက် (အေဒီ–၄၊ ဇွန်လ၊ ၁၈၅၈)ခုနှစ်၌ ကျောင်းအပ်တင်လှူစေ၏။ ထို့နောက် မဟာဇောတိကာရာမရတနာဘုံစံကျောင်းတော်ကြီးကို ကျောင်းရံ–၂၀ နှင့်တကွဆောက်လုပ်ပြီးစီးသောအခါ ကျောင်းတင်လှူဒါန်းတော်မူခဲ့ပြန်ပါသည်။*၅

စံကျောင်းဆရာတော်ဦးစန္ဒိမာသည် သာသနာပြုသုဓမ္မာအဖွဲ့တွင် အဖွဲ့ဝင်ဆရာတော်ဖြစ်ပါသည်။ ပဋ္ဌမပြန်စာတော်ပြန်ပွဲကိုလည်း ကြီးကြပ်ကွပ်ကဲစီစဉ်ပေးရသည်။ ပဋ္ဌမပြန်စာတော်ပြန်ပွဲကို

---

*၁ စကြာဒေဝီမိဖုရားကြီးကိုဆိုလိုသည်။ စကြာဒေဝီမိဖုရားကြီးသည် မင်းတုန်းမင်းထက် ၂–နှစ်ကြီးသည်ဖြစ်၍ မင်းတုန်းမင်းက အစ်မတော်ဟုခေါ်ခြင်းဖြစ်သည်။

*၂ တိုက်စိုး၏ မင်းတုန်းမင်း။ ၁၉၉၈–ခုနှစ်။ (စာမျက်နှာ ၂၇–၂၈)။

*၃ လယ်တီဦးလုပိုင်၏ ပခန်းသာသနာဝင်။ ၁၉၈၁–ခုနှစ်။ (စာမျက်နှာ–၄၆)။ ဦးညိုမြ၏ ကုန်းဘောင်ရှာပုံတော်။ မြဝတီစာပေတိုက်၊ ရန်ကုန်မြို့။ ၁၉၉၇–ခုနှစ်။ (စာမျက်နှာ–၄၃၄)။

*၄ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၂၀၈)။

*၅ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၂၆၇)။

နှစ်စဉ် နယုန်လ၌စတင်ကျင်းပလေ့ရှိသော်လည်း တန်ခူးလတွင် အကြိုပဌမပြန်စာတော်ပြန်ပွဲကိုကား ဆရာတော်ဦးစန္ဒိမာကြီးကြပ်ပြီး စံကျောင်းတိုက်မှာပင် ကျင်းပလေ့ရှိသည်။

ဆရာတော်ဦးစန္ဒိမာသည် အင်္ဂါရုပ်ဟောခြင်းအတတ်ကို အလေ့ဝါသနာရှိသောကြောင့် မူလရုပ်ပုံဟောနည်းလက်စွဲကျမ်းငယ်တစ်ဆူပြုစုတော်မူခဲ့သည်။ ယင်းလက်စွဲဖြင့် တွက်ချက်ဟောပြောတိုင်း များသောအားဖြင့်မှန်ကန်သည်။ ထိုကျမ်းငယ်ရေးသားထားပုံမှာ လင်္ကာစာသွားတဖြောင့်တည်းမဟုတ်၊ သီချင်းဖြစ်တဲ့ လွှင့်သံ,ပုံသံ,သံပေါက်,သံထောက် စသည် ကာရန်အမျိုးမျိုးဖြစ်လျက်ရှိသည်ဟုဝေဖန်ကြပါသည်။*၁

သက္ကရာဇ် ၁၂၂၃–ခုနှစ်၊ တပေါင်းလပြည့်ကျော် ၁၂–ရက် (အေဒီ–၂၆၊ မတ်လ၊ ၁၈၆၂) ခုနှစ်တွင် စံကျောင်းဆရာတော်ကြီးနာမကျန်းဖြစ်ရာ မင်းတုန်းမင်းကြီးတစ်ပါးတည်း အမေးအမြန်းထွက်တော်မူပါသည်။ သက္ကရာဇ် ၁၂၂၄–ခုနှစ်၊ တပေါင်းလဆန်း ၅–ရက် (အေဒီ –၂၃၊ ဖေဖော်ဝါရီလ၊ ၁၈၆၃) ခုနှစ် နံနက် ၄–နာရီမတီးမီအချိန်တွင် စံကျောင်းဆရာတော်ကြီး ဘဝကူးပြောင်းတော်မူသည်။*၂

ဆရာတော်ဦးစန္ဒိမာ ဘဝပြောင်းသည်ကိုသိတော်မူလျှင် မင်းတုန်းမင်းကြီးသည် မိမိ၏ငယ်ဆရာဖြစ်၍ ခမ်းနားကြီးကျယ်စွာလုပ်ဆောင်သင်္ဂြိုဟ်တော်မူရမည်ဟု မိန့်တော်မူပါသည်။ သင်္ဂြိုဟ်ရာအရပ်မှာ စံကျောင်းတိုက်၏အရှေ့တောင် မဟာရံတံတိုင်းအတွင်းဖြစ်သည်။ ထိုအရပ်၌ အထူးအဆန်းအကြီးအကျယ် အာလိန်ငါးဆင့်လောင်တိုက်ဆောက်လုပ်စေ၏။ မင်းတုန်းမင်းကြီးကိုယ်တော်တိုင် စံကျောင်းတော်မှ သံလျင်းနှင့်ချတော်မူပြီး တလားနှင့် အာလိန်ငါးဆင့်သို့တင်စေသည်။ တန်ခူးလပြည့်ကျော် ၈–ရက် (အေဒီ–၁၀၊ ဧပြီလ၊ ၁၈၆၃–ခုနှစ်)တွင် နန်းမြေဘုံသာသို့ အရှင်နှစ်ပါးထွက်တော်မူ၍ သင်္ဂြိုဟ်တော်မူ၏။ ပြာသာဒ်ရထား အလှူအတန်းပွဲသဘင်များကိုလည်း အထူးအဆန်းအကြီးအကျယ် လုပ်ဆောင်တော်မူ၏။ ထိုနေ့၌ မန္တလေး, အမရပူရ, အင်းဝ, စစ်ကိုင်း, အရညဝါသီဂါမဝါသီတံဆိပ်တော်ရ,မရ ရဟန်းသာမဏေတစ်သောင်းကို သပိတ်သင်္ကန်းနှင့်တကွ ဆွမ်း,ကွမ်း၊ သံဃာတော်တစ်ပါးစီကို သင်္ကန်းတိစီဝရိက်, ခါးပန်းကြိုးကွင်းစုံ, သင်တုန်း, ကြေးရေစစ်, အပ်ထုပ်, ကွမ်းအစ်, ထုံးဘူးတစ်ဘူးကျစီလှူတော်မူခဲ့၏။*၃ ဦးစန္ဒိမာပြန်လွန်တော်မူစဉ်က အရှင်နှစ်ပါးထွက်တော်မူ၍ သင်္ဂြိုဟ်သည့်အကြောင်းကို စလေဦးပုညက ပိုချင်းရှည်လေးပုဒ်ရေးသားပြီး မှတ်တမ်းထားတင်ခဲ့ပါသည်။*၄

---

*၁ ဝက်မစွတ်ဝန်ထောက်၏ အတ္ထုပ္ပတ္တိ။ ဟံသာဝတီမဂ္ဂဇင်း၊ အတွဲ–၁၊ အမှတ်–၂။ ၁၉၃၆–ခုနှစ်၊ ဇန်နဝါရီလ။ (စာမျက်နှာ–၁၁၅)။

*၂ ဒဂုန်ခင်ခင်လေး၏ ဝက်မစွတ်မြို့စားအတ္ထုပ္ပတ္တိနှင့်စာပေများ။ ဒဂုန်ခင်ခင်လေးစာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ ၈၈–၉၀)။

*၃ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၃၁၀)။

*၄ ပညာအုပ်ဦးလွင်၏ ကဗျာသင်္ဂဟမေဒနီ။ ၁၉၆၆–ခုနှစ်။ (စာမျက်နှာ–၂၃၀)။

ဆရာတော်ဦးစန္ဒိမာ၏အလောင်းကိုမီးသဂြိုဟ်ပြီး မဟာဇောတိကာရာမတိုက်၏ အရှေ့တောင်ထောင့်ရှိ အလယ်မဟာရံအတွင်း အရိုးများကိုဌာပနာ၍စေတီတည်ထားခဲ့၏။ တောင်ဆောင်တော်မိဖုရားဟောင်းက ထိုအရိုးအိုးစေတီကိုမျို၍ အုတ်ရိုးပြာသာဒ်ဆောက်လုပ်ထားရှိပါသည်။*၁

## ဒုတိယစံကျောင်းဆရာတော်(ပြည်ဆရာတော်ကြီး)

ပထမစံကျောင်းဆရာတော်ဦးစန္ဒိမာ ပြန်လွန်တော်မူပြီးနောက် မင်းတုန်းမင်းကြီးသည် သက္ကရာဇ် ၁၂၂၅–ခုနှစ်၊ တန်ဆောင်မုန်းလ(အေဒီ ၁၈၆၃–ခုနှစ်၊ အောက်တိုဘာလ)တွင် မန္တလေးတောင်ခြေ မန္တလာရာမတိုက်(ပြည်တိုက်)၌ သီတင်းသုံးနေတော်မူသော ‘မေဓာဘိဝံသ သဒ္ဒမ္မဓဇမဟာဓမ္မ ရာဇာဓိရာဇဂုရု’ တံဆိပ်တော်ရ ပြည်ဆရာတော်ဘုရားကြီးကို စံကျောင်းတိုက်သို့ ပင့်ဆောင်ပြီး ကျောင်းတင်လှူဒါန်းခဲ့သည်။

ပြည်ဆရာတော်ကြီးကို သက္ကရာဇ်၁၁၅၀–ပြည့်နှစ်၊ ဝါဆိုလဆန်း ၇–ရက် (အေဒီ–၁၀၊ ဇွန်လ၊ ၁၇၈၈)ခုနှစ် ညောင်ကန်ရွာတွင် အဘဦးဖြူ၊ အမိဒေါ်ညွန့်တို့မှ ဖွားတော်မူသည်။ ငယ်မည်မှာ ဦးကျီးညိုဖြစ်သည်။ ရဟန်းဘွဲ့ကား ဦးမေဓာဝီဖြစ်သည်။ ပြည်ဆရာတော် ဦးမေဓာဝီသည် ညောင်ကန်အနွယ်ဖြစ်၍ မင်းတုန်းမင်း၏မြောက်နန်းမိဖုရားကြီးခင်သဲ၏ငယ်ဆရာရင်းဖြစ်၏။ သက္ကရာဇ် ၁၂၀၀–ပြည့်နှစ် (အေဒီ–၁၈၃၈)ခုနှစ်တွင် သာယာဝတီမင်း၏သားတော် ပြည်မြို့စားမင်းသားက အမရပူရမြို့ တံခွန်တိုင်အရပ်၌ ကျောင်းကြီးဆောက်၍တင်လှူကိုးကွယ်သောကြောင့် ပြည်ဆရာတော်ဟုထင်ရှားခဲ့ခြင်းဖြစ်သည်။*၂

ပြည်ဆရာတော်ကြီးသည် အဋ္ဌသာလိနီအဌကထာနိသျှသစ်၊ ဝိသုဒ္ဓိမဂ်အဌကထာနိသျှသစ်၊ ဋီကာကျော်နိသျှ၊ ခန္ဓဝဂ္ဂသံယုတ်အဌကထာနိသျှ၊ ဇာတ်ပါဠိတော်နိသျှ၊ သဒ္ဒတ္ထဘေဒစိန္တာနိသျှ အစရှိသော နိသျှကျမ်းမြောက်များစွာကို ပြုစုရေးသားစီရင်တော်မူခဲ့ပါသည်။

ပြည်ဆရာတော်ကြီး စံကျောင်းတိုက်သို့ သက္ကရာဇ် ၁၂၂၅–ခုနှစ်၊ တန်ဆောင်မုန်းလ (အေဒီ ၁၈၆၃–ခုနှစ်၊ နိုဝင်ဘာလ)တွင်ရောက်၍ ငါးလခန့်သီတင်းသုံးတော်မူပြီး သက္ကရာဇ် ၁၂၂၅–ခုနှစ်၊ နှောင်းတန်ခူးလ (အေဒီ ၁၈၆၄–ခုနှစ်၊ မတ်လ)တွင် ပြန်လွန်တော်မူပါသည်။ ပြည်ဆရာတော်ဘုရားကြီး၏ရုပ်ကလာပ်တော်ကို သက္ကရာဇ် ၁၂၂၅–ခုနှစ်၊ တန်ခူးလဆန်း ၃–ရက် (အေဒီ–၉၊ မတ်လ၊ ၁၈၆၄–ခုနှစ်)၌ သဂြိုဟ်တော်မူပါသည်။*၃

## တတိယစံကျောင်းဆရာတော်ဦးသုဒဿန

ပြည်ဆရာတော်ဘုရားကြီး ပြန်လွန်တော်မူပြီးနောက် သက္ကရာဇ် ၁၂၂၆–ခုနှစ်၊ တန်ဆောင်မုန်းလ (အေဒီ ၁၈၆၄–ခုနှစ်၊ နိုဝင်ဘာလ)တွင် မင်းကွန်းမြောက်ဘက် အုန်းသဇင်ရွာ

---

*၁ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၃၁၃)။

*၂ ဦးသုဒဿန၏ ညောင်ကန်သာသနာဝင်။ ၁၃၂၁–ခုနှစ်။ (စာမျက်နှာ–၂၁၃၊ ၂၁၉)။

*၃ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၃၁၆)။

ကုန္ဒသာလတောရ၌ သီတင်းသုံးနေသော 'သုဒဿနဝရဓမ္မသာမိမဟာဓမ္မရာဇဓိရာဇဂုရု' တံဆိပ်တော်ရ ဦးသုဒဿနအား*၁ စံကျောင်းတိုက်ကိုအလှူခံတော်မူပါရန် မြတောင်မြို့စား သေနတ်ဝန်ကြီး၊ လောင်းရှည်မြို့စားဝန်ကြီး၊ ရွှေတိုက်အတွင်းဝန်မင်းနှင့် ကောလင်းမြို့စားတို့ကို လှူဖွယ်ဝတ္ထုတို့ဖြင့် သွားရောက်ပင့်ဆောင်ကြသည်။ ဆရာတော်ဦးသုဒဿနသည် မင်းတရားကြီး၏အလှူတော်ကိုလက်ခံ၍ နောက်ပါသံဃာအပါး-၅၀ နှင့်အတူ စံကျောင်းတိုက်သို့ကြွတော်မူခဲ့ပါသည်။*၂

တတိယစံကျောင်းဆရာတော်ကြီးဦးသုဒဿနသည် ရွှေဘိုမင်းလက်ထက် 'သူရိယာဘိဝံသာဘိသီရိပဝရာလင်္ကာရဓမ္မသေနာပတိမဟာရာဇာဓိရာဇဂုရု' တံဆိပ်တော်ရ သဲအင်းသာသနာပိုင်၏အဆက်အနွယ်ဖြစ်ပါသည်။ ဖခင်မှာ သေနတ်အစုသားမျိုးရိုးဖြစ်ပြီး ပခန်းကြီးမြို့ မြစ်လုရွာချောင်းရွာတွင်နေထိုင်၍ ဆရာတော်ဦးသုဒဿနကို သက္ကရာဇ်-၁၁ရရ (အေဒီ-၁၈၁၅) ခုနှစ်တွင် မြင်းခြံခရိုင်၊ နွားပြင်ရွာတွင်ဖွားမြင်တော်မူခဲ့သည်။*၃ အရွယ်ရောက်လျှင် မြင်းခြံမြို့ ရွှေတောင်ဦးဆရာတော်ထံပညာသင်ယူခဲ့ပါသည်။

သဲအင်းသာသနာပိုင်သည် မြင်းခြံမြို့သို့ကြွတော်မူလာပြီး မင်းကျောင်း၌ ခေတ္တသီတင်းသုံးနေစဉ် မင်းကျောင်းဘုန်းကြီးက မြင်းခြံမြို့တွင် စာတော်ကိုရင်တစ်ပါးရှိကြောင်းလျှောက်ထားရာ သာသနာပိုင်ကြီးက မောင်ရင်ငယ်ကိုတွေ့လို၍ ခေါ်စေသည်။ ထိုမောင်ရင်ငယ်မှာ ဦးသုဒဿနလောင်းလျာ မောင်ရင်ပင်ဖြစ်သည်။ ရှေ့သို့ရောက်လျှင် သာသနာပိုင်ကြီးက သခေ်ပဝဏ္ဏနာပါဠိမှအချို့ကို အနက်ပေးစေ၏။ ပေစာရှစ်ရွက်ခန့်ကုန်လျှင်ရပ်စေပြီး ဋီကာကျော်ပါဠိမှအချို့တို့ကို အနက်ပေးစေပြန်ရာ ပေခုနစ်ရွက်ခန့်ကုန်လျှင်ရပ်စေ၏။ မင်းကျောင်းဘုန်းကြီးက မောင်ရင် သုဒဿနသည် ယခုအနက်ပြန်ခဲ့သောစာတို့ကိုမသင်ရသေးကြောင်း လျှောက်ထားသောအခါ မောင်ရင်ငယ်၏ပညာအစွမ်းကိုနှစ်သက်လှသည့်အတွက် သဲအင်းသာသနာပိုင်က 'မောင်ရင်ငယ်ကို မိမိနှင့်အတူနေရမည်'ဟုအမိန့်ရှိလေသည်။ သဲအင်းသာသနာပိုင်သည် ဒေသစာကြွဆဲအခိုက်ဖြစ်၍ 'ငါ့နောက်လိုက်နေလျှင်ကြာမည်၊ ယခုကပင် ကျောင်းတိုက်သို့ပို့ထားစေရမည်' ဟုမိန့်တော်မူကာ တပည့်များကိုတာဝန်လွှဲလိုက်လေသည်။

သဲအင်းသာသနာတော်ပိုင်ဆရာတော်ကြီးသည် ရှင်သုဒဿနမောင်ရင်ငယ်ကို နတ်ရဲတောင်သာသနာပိုင်ဟုထင်ရှားလာမည့် ဆရာတော်ဦးဥေယျ၏လက်သို့လွှဲအပ်ပြီး ပညာသင်ယူစေ၏။ တစ်ခါတစ်ပါး သဲအင်းသာသနာပိုင်ဆရာတော်ကြီးသည် ဦးဥေယျထံသို့ကြွသွားတော်မူရာ ဦးဥေယျက သာသနာပိုင်ကြီးဘုဉ်းပေးရန် ကိုရင်သုဒဿနအား မန်ကျည်းသီးစိမ်းထောင်းခိုင်းသည်ကို သဲအင်းသာသနာပိုင်ကြီးမြင်တွေ့တော်မူလျှင် 'ဟဲ့-ဥေယျ၊ ဒီကိုရင် မန်ကျည်းသီးစိမ်းထောင်းခိုင်းရမယ့် ကိုရင်မဟုတ်၊ သင့်တော်ရာကြည့်ခိုင်းမှပေါ့၊ ဒီကိုရင်က စာတတ်မယ့်

*၁ လယ်တီဦးလှပိုင်၏ ပုခန်းသာသနာဝင်။ ၁၉၈၁-ခုနှစ်။ (စာမျက်နှာ-၃၃)။

*၂ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈-ခုနှစ်။ (စာမျက်နှာ-၃၂၇)။

*၃ ပခန်းကျော်(မအူပင်)၏ ပခန်းကြီးအကြောင်းသိကောင်းစရာ။ ၁၉၉၇-ခုနှစ်။ (စာမျက်နှာ-၂၈၁)။

ကိုရင်'ဟု အခြားအလုပ်မခိုင်းစေဘဲ စာကိုသာသင်ပေးရန်မိန့်တော်မူခဲ့သည်။ မောင်ရင်သုဒဿန သည် ပုခန်းကြီးပုဘာဆရာတော်ဦးစန္ဒမဥ္ဇူ၊ စလင်းသာသနာပိုင်ဦးပညာသီဟ၊ သဲအင်းသာသနာပိုင် ဦးသူရိယ၊ ဒုတိယမောင်းထောင်ဆရာတော်ဟုထင်ရှားသော နတ်ရဲတောင်သာသနာပိုင် ဦးဥေယျဓမ္မ၊ မူလအင်းကန်းဆရာတော်၊ ဘုံကျော်ဆရာတော်နှင့် ဖားကရာသာသနာပိုင်ဆရာတော် ဦးပညာဇောတစသည့်ဆရာတော်ကြီးတို့ထံတွင် စာတစ်ဝါစီတက်ခွင့်ရလေသည်။ ဆရာကောင်း များထံတွင် မှီခိုဆည်းကပ်ခွင့်ရသည့်အတွက် သဲအင်းဆရာတော်ဘုရားကြီးက 'ငါ့တပည့် သုဒဿနအစုံ'ဟု သဒ္ဒါဝိနည်းအဘိဓမ္မာအဖက်ဖက်ကပြည့်စုံသော စွယ်စုံရတပည့်အဖြစ် ချီးကျူးတော်မူလေသည်။

ရှင်သုဒဿနသည် မုနိန္ဒာဘိဝံသဓမ္မသေနာပတိမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ရ စလင်းသာသနာပိုင်ဦးပညာသီဟကိုဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ရောက်တော်မူသည်။ ရဟန်း ဒါယကာမှာ သာယာဝတီမင်းဖြစ်ပြီး ပစ္စည်းလေးပါးဒါယိကာမှာ မင်းတုန်းမင်းကြီး၏မိဖုရား ခေါင်ကြီးဖြစ်လတ္တံ့သော သာယာဝတီမင်း၏သမီးတော်(စကြာဒေဝီ)ဖြစ်သည်။ မင်းတုန်းမင်း ကိုယ်တော်တိုင်လည်း ပုခန်းကြီးမြို့ ရှင်မတောင်အနီး ပန်းဒူးဆရာတော်အရှင်ဥတ္တမထံတွင် အရှင်သုဒဿနနှင့်အတူနေခဲ့ဖူး၏။ ထိုစဉ် အရှင်သုဒဿနက မင်းတုန်းမင်းသားကို လောကုတ္တရာ စာပေနှင့် လောကီဓမ္မသတ်ဖြတ်ထုံးများကိုသင်ပေးခဲ့ဖူးသည်။*၁ အရှင်သုဒဿန ပရိယတ္တိ၌ ပေါက်မြောက်ပြီးနောက် မင်းကွန်းအနီး အုန်းသဇင်ရွာ ဣန္ဒသာလတောရတွင် တရားအားထုတ် လျက်နေစဉ် ရဟန်းဒါယကာသာယာဝတီမင်းက 'သုဒဿနဝရမဟာဓမ္မသာမိရာဇာဓိရာဇဂုရု' တံဆိပ်တော်ကိုလည်းကောင်း၊ ငယ်တပည့်မင်းတုန်းမင်းက 'သုဒဿနဓဇအေတုလာဓိပတိသီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု'တံဆိပ်တော်ကိုလည်းကောင်း ကပ်လှူသည်ကိုခံယူရလေသည်။*၂

မန္တလေးမြို့မြောက်ပြင်စံကျောင်းတိုက်ကြီး၌ ဆရာတော်ဦးစန္ဒိမာ၊ ပြည်ဆရာတော်ဦးမေဓာ တို့ ပြန်လွန်တော်မူပြီးသည့်နောက် သက္ကရာဇ် ၁၂၂၆–ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၅–ရက် (အေဒီ–၂၆၊ အောက်တိုဘာလ၊ ၁၈၆၅–ခုနှစ်)တွင် ဆရာတော်ဦးသုဒဿနအား စံကျောင်းတိုက်ကို တင်လှူသဖြင့် ဆရာတော်ဦးသုဒဿနသည် တတိယစံကျောင်းဆရာတော်ဖြစ်တော်မူခဲ့ပါသည်။

တတိယစံကျောင်းဆရာတော်ကြီးဦးသုဒဿန၏ဦးခေါင်းတော်ထိပ်အလယ်တည့်တည့်၌ ဆံပင်ခြောက်ပင်ခန့် ဒေါင်းဦးစွန်းကဲ့သို့ထောင်လျက်ရှိခြင်းမှာ ဆရာတော်ကြီး၏ရုပ်ရူပကာယ ထူးခြားချက်ဖြစ်သည်။*၃ စံကျောင်းဆရာတော်ကြီးဦးသုဒဿန၏ အခြားထူးခြားမှုတစ်ရပ်မှာ စကားအပြောအဆိုနည်းပါးခြင်းဖြစ်သည်။ ဆရာတော်ဦးသုဒဿနသည် သုဓမ္မာဆရာတော်များ အဖွဲ့တွင်အပါအဝင်ဖြစ်လေရာ သုဓမ္မာ၌ဆရာတော်များစည်းဝေးတော်မူကြသည့်အခါ မည်သည့်

*၁ လယ်တီဦးလှပိုင်၏ ပုခန်းသာသနာဝင်။ ၁၉၈၁–ခုနှစ်။ (စာမျက်နှာ–၂၆၇)။

*၂ အရှင်ကေလာသ၏ စစ်ကိုင်းသာသနာဝင်ကျမ်း။ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ–၃၁၃)၌ အထက်ပါတံဆိပ်တော်တို့ကို မင်းတုန်း မင်းနှင့် သီပေါမင်းတို့ ဆက်ကပ်လှူဒါန်းကြောင်း–ဖော်ပြထား၏။

*၃ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၄၈)။

အကြောင်းအရာကိုမျှ အလွယ်တကူပြောဆိုခြင်း၊ အလွယ်တကူဝန်ခံခြင်း၊ အလွယ်တကူ ဆုံးဖြတ်ခြင်းပြုတော်မူလေ့မရှိ။ စကားနည်းတော်မူလှသောကြောင့် အခြားဆရာတော်တို့က 'စံကျောင်းဆရာတော်စကားပြောခြင်းသည် ရွှေကိုချိန်ရောင်းသည်နှင့်တူ၏' ဟုမိန့်တော်မူကြသည်။ ဆရာတော်ကြီးသည် စကားနည်းသော်လည်း မိန့်တော်မူလိုက်လျှင် အချက်ကျကျနှင့်အဖိုးတန် အောင်မိန့်တော်မူလေ့ရှိသည်။*၁

မင်းတုန်းမင်းကြီးနှင့်စကြာဒေဝီမိဖုရားကြီးတို့ မင်းမောင်နှံနှစ်ပါးသည် ဆရာတော်ဦးသုဒဿန ရဟန်းငယ်ဘဝကပင် ပစ္စည်းလေးပါးဒကာရင်းများဖြစ်ခဲ့ကြသော်လည်း ဆိုစရာပြောစရာရှိလျှင် ဒကာရင်းသော်မှလည်း မငဲ့ညှာခဲ့ပေ။ စကြာဒေဝီမိဖုရားကြီးသည် ဘုရားသားတော်များအပျင်းပြေ တော်မူကြပါစေခြင်းငှာ တန်ဆောင်မုန်းလအခါ ကျောင်းစေ့ရုပ်သေးပွဲပြသစေလေ့ရှိပါသည်။ ဤသို့ ဘုန်းတော်ကြီးများ ရုပ်သေးပွဲလမ်းလှူဒါန်းသည်ကို ဆရာတော်ဦးသုဒဿနသည် လုံးဝ မနှစ်သက်ခဲ့ပေ။ သို့ဖြစ်၍ ရုပ်သေးပွဲလာ၍က,ကြသော ဒကာတို့အား– 'ဒကာတို့ လောကမှာ အလှူဒါနဟုသမုတ်ခေါ်ဝေါ်ကြသော်လည်း အလှူဒါနမဟုတ်၊ အယုတ်အကုသိုလ်သာဖြစ်တဲ့ တရားငါးပါးဟု ဘုရားရှင်ဟောခဲ့တယ်။ (ဝိ၊ ၅။ ၂၃၁။ ဝိ၊ ၃၊ ၄။ ၁၃၃။)။ ထိုတရားငါးပါးမှာ– (၁) သေရည်သေရက်အလှူ၊ (၂) မိန်းမအလှူ၊ (၃) ကာမဂုဏ်နှင့်စပ်သောပန်းချီကားအလှူ၊ (၄) ဥသဘဒါနခေါ် နွားမကြားမှာ နွားသိုးလွှတ်ပေးသောအလှူ၊ (၅) ဇာတ်ပွဲရုပ်သေးပွဲအလှူတို့ပင် ဖြစ်တယ်။ ဤအလှူငါးမျိုးဟာ အကုသိုလ်သာဖြစ်ပွားစေတတ်လို့ အလှူမဟုတ်ကြကုန်'ဟု ဟောပြောတော်မူသောကြောင့် ဆရာတော်ဦးသုဒဿနလက်ထက်တွင် စံကျောင်းတိုက်သို့ သဘင်သည်တို့ မလာဝံ့ကြတော့ပေ။*၂

အရှင်ဉာဏတို့ စံကျောင်းတိုက်၌သီတင်းသုံးနေထိုင်စဉ်အတွင်း အဆန်းတကြယ်ကိစ္စ တစ်ရပ်ကို ကိုယ်တွေ့ကြုံခဲ့ရသည်။ ယင်းမှာ– တစ်ခါသော် ဆရာတော်ဦးသုဒဿနက ဤ စံကျောင်းတိုက်အတွင်းရှိ သံဃာတို့တွင် ရဟန္တာတစ်ပါးပါဝင်နေ၏–ဟု အိပ်မက်မြင်မက်တော် မူပါသည်။ ဆရာတော်ကြီးသည် မိမိ၏အိပ်မက်အတိုင်း ဟုတ်,မဟုတ်သိလို၍ နောက်တစ်နေ့ နံနက်လင်းလျှင် သံဃာအားလုံးကိုစည်းဝေးစေပြီး သက်နံးတစ်စုံစီလှူကာ မိမိ၏အိပ်မက်ကို

---

*၁ လယ်တီပဏ္ဍိတဦးမောင်ကြီး၏ နီတိမာလာကျမ်း၊ ပထမတွဲ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၁၆၈)။

*၂ အပါယဂမနိကဒါနငါးပါးကို ဆိုလိုသည်။ ထီးချိုင့်နတ်စိုး၏ မောင်းထောင်နှင့်မန်လည်(ဆောင်းပါး)။ မြတ်ရတနာစာစောင်၊ ၁၉၆၀–ပြည့်နှစ်၊ နိုဝင်ဘာလ။ (စာမျက်နှာ–၄၉)။ စံကျောင်းဆရာတော်ကြီးက သဘင်သည်ကို ဤသို့မိန့်သဖြင့် နောင်အခါ သံချိုဦးကျော်လှက ဆရာတော်ကြီးအား ပြန်လည်ချေပသောသံချိုများဆိုခဲ့ပါသည်။ ရှေးဟောင်းစာပေ သုတေသီ၏ မောင်းထောင်ဆရာဦးကျော်လှ၏ သူ့ခေတ်,သူ့ဘဝ,သူ့စာ။ စိန်ပန်းမြိုင်စာပေ၊ ရန်ကုန်မြို့။ ၁၉၇၇–ခုနှစ်။ (စာမျက်နှာ–၂၈)။ မောင်းထောင်ဦးကျော်လှက သံချိုဆိုသည်ကို ထိုစဉ်က မန္တလေးမြို့၌စာပေသင်ယူနေဆဲဖြစ်သော မန်လည် ဆရာတော်ကြီးက စံကျောင်းဆရာတော်ကြီးဘက်မှနေ၍ စံကျောင်းဆရာတော်ကြီးအယူအဆမှန်ကန်ကြောင်းကို သံချိုတစ်ပိုဒ်ရေးပါသည်။ အရှင်ဉာဏာဒိစ္စ၏ အဖိုးတန်မန်လည်ကဗျာများ။ ထွန်းပညာပိဋကတ်စာအုပ်ဆိုင်၊ ရန်ကုန်မြို့။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ–၂၁၀)သို့လည်းရှုပါ။

ထုတ်ဖော်မိန့်ကြားရာ ရဟန်းငါးဝါရစာချဘုန်းကြီးဦးနာဂသေနက ဆရာတော်ကြီး၏အိပ်မက်၌ ထင်မြင်လာသောရဟန္တာ ဘမှာ မိမိပင်ဖြစ်ကြောင်း ဝန်ခံလျှောက်ထားခဲ့ပါသည်။

ဤတွင် စံကျောင်းဆရာတော်ကြီးသည် အသေအချာစစ်ဆေးရာ မဟုတ်မမှန်ကြောင်း ထင်ရှားသောကြောင့် ဦးနာဂသေနကို စတုတ္ထပါရာဇိကကျပြီဟုအပြစ်တင်လျက် တိုက်တာမှ နှင်ထုတ်တော်မူခဲ့၏။ ထိုအရှင်နာဂသေနကား စစ်ကိုင်း မကျည်းစင်ရွာသားဖြစ်၍ ငယ်ကတည်းကပင် စာတော်သူဖြစ်၏။ စကုဆရာတော်ကြီးထံတပည့်ခံခဲ့ပြီး စကုဆရာတော်ကြီးကိုယ်တော်တိုင် စံကျောင်းဆရာတော်ထံ လာရောက်အပ်နှံခဲ့ခြင်းဖြစ်၏။ ရဟန်းဒါယကာကား စလင်းမင်းသမီးဖြစ်၏။ ပထမကျော်အောင်၍ သက်တော်ငယ်ငယ်နှင့်စာချဘုန်းကြီးဖြစ်ခဲ့သည်။ အရှင်နာဂသေနသည် စံကျောင်းတိုက်မှထွက်၍ စစ်ကိုင်းတောင် ဓမ္မိကာရာမထွင့်ခေါင်ကျောင်းသို့ သွားလျှင် ထွင့်ခေါင်ဆရာတော်ကြီးကလက်ခံထားလေ၏။ စံကျောင်းဆရာတော်သည် ထွင့်ခေါင်ဆရာတော်ကြီးကိုမကျေနပ်သောကြောင့် သာသနာပိုင်ဦးဥယျောဓမ္မအား တိုင်တန်း၏။ ထိုကိစ္စအလုံးစုံကို မင်းတုန်းမင်းကြားသိလျှင် စံကျောင်းဆရာတော်အား 'ထွင့်ခေါင်ဆရာတော်ကြီးအား ဘုရားအမိန့်မှတပါး မည်သူ့အမိန့်ကိုမျှနာယူစရာမလိုသော ဂဏာဝိမုတ်သမုတ်လျှပြီးဖြစ်ပါသည် ဘုရား'ဟု လျှောက်ထားခဲ့ရသည်။[*၁]

စံကျောင်းဆရာတော်ဘုရားကြီးသည် စာချရာတွင်လည်း ဂန္ထန္တရကျမ်းဂန်အဝဝတို့ကို ကြည့်၍ တစ်ခုသောအရာ၌ ကျမ်းဆရာချင်းအယူအဆမတူ ဝါဒကွဲပြားဟန်ကိုပြဆိုပြီးမှ အာဘော်ကျအောင်ကောက်ချက်ထုတ်၍ ယုတ္တိသာဓကသင့်သောအရာကိုဖော်ပြ ဝိနိစ္ဆယအဓိပ္ပာယ်ကိုသာ များစွာပြောကြားတော်မူလေ့ရှိသည်။[*၂] ထိုသို့ ကျမ်းဆရာချင်းအဆိုမတူအယူကွဲပြားရာကိုညှိနှိုင်းချိန်ဆရသောအခါ တပည့်တို့အား- 'ငါ့ရှင်တို့၊ ကျမ်းဂန်များအကွဲအပြားတွေ့ရှိခဲ့ကြလျှင် ပယ်ရှားပစ်တင်ခြင်းမပြုဘဲ တစ်ကျမ်းနှင့်တစ်ကျမ်းညီညွတ်အောင်နှိုင်းဆ၍ သဘောကျအောင်ကြည့်ရှုကြရမည်'-ဟု သြဝါဒပေးတော်မူလေ့ရှိပါသည်။[*၃]

စံကျောင်းဆရာတော်ဦးသုဒဿနသည် တပည့်များစွာကို တစ်ချိန်တည်းမှာ လက်ခံမွေးမြူနိုင်သကဲ့သို့ ထိုမွေးမြူသမျှတပည့်အများတို့ကိုလည်း စည်းစနစ်ကျနစွာ နိုင်နိုင်နင်းနင်းမွေးမြူနိုင်စွမ်းရှိသည့်အတွက် 'တပည့်မွေး-စည်းကမ်းပေး'အရာ၌ အထူးထင်ရှားသည်။ စံကျောင်းဆရာတော်ကြီးဦးသုဒဿန၏တပည့်မှန်က ထင်ရှားကျော်စောသောပုဂ္ဂိုလ်သာများကြ၏။ စံကျောင်းဆရာတော်ကြီးသည် စည်းကမ်းစနစ်ကြီးစွာအုပ်ချုပ်တော်မူသဖြင့် 'စံကျောင်းထွက်များ ဖျင်းလွန်းလို့ စာမတတ်ဘဲသာရှိရမည်။ တံမျက်လှည်း,ဖျာခင်းစသောတိုက်တာအုပ်ချုပ်ရေးဘက်၌ စနစ်ကျလှ

---

*၁ ဓမ္မာစရိယဦးဌေးလှိုင်၏ ရဟန္တာ ၇နှင့်ပုဂ္ဂိုလ်ထူးများ။ ဗုဒ္ဓအသံစာပေ၊ ရန်ကုန်မြို့။ ၁၉၈၉-ခုနှစ်။ (စာမျက်နှာ-၁၇၈)။

*၂ အရှင်ကေလာသ၏ စစ်ကိုင်းသာသနာဝင်။ ၁၉၇၉-ခုနှစ်။ (စာမျက်နှာ-၁၅၅)။

*၃ ချောင်းဦးမြို့ ရွှေတောင်ဆရာတော်၏စက္ခာဒိဒသကပ္ပတ္တိဝိနိစ္ဆယကျမ်း။ ကဝိချစ်ဆွေပုံနှိပ်တိုက်၊ တိုက်ကြီးမြို့။ ၁၂၈၉-ခုနှစ်။ (စာမျက်နှာ-၃)။

သည်’ ဟုပင် ပြောစမှတ်ရှိခဲ့သည်။ စံကျောင်းဆရာတော်ကြီး၏တပည့်မှန်ပါက ပါရမီရှိလျှင် စာတတ်မည်၊ ကျော်စောတိက္ကမရှိမည်။ ပါရမီနည်း၍စာမတတ်လျှင် အချိုးတကျနေတတ်ထိုင်တတ် လုပ်တတ်ကိုင်တတ်ရှိသဖြင့် စွန့်ပယ်ရလောက်အောင်မညံ့ဖျင်းဟူသောအဓိပ္ပာယ်ဖြစ်သည်။

စံကျောင်းဆရာတော်ဘုရားကြီးသည် မိမိထံပါးခိုဝင်၍ တပည့်ခံလာသူရှင်ရဟန်းတို့ကို ဓမ္မအမွေကိုသာရယူကြရန်ဆုံးမတော်မူပြီးလျှင် အောက်ပါအတိုင်းဩဝါဒချီးမြှင့်ပြီး ပဋိညာဉ် ဆောင်တော်မူလေ့ရှိပါသည်။

၁။ မြတ်စွာဘုရားသာသနာတော်သည် စာသင်စာတက်ခြင်း, စာပို့ချခြင်း, ဘုရားတရားတော်နှင့်အညီ ကျမ်းဂန်ရေးသားခြင်း၌မှီသည်ဖြစ်၍ စာတက်စာသင်ခြင်း ယနေ့ မရှိလျှင် သာသနာတော်တိုးပွားခြင်းမရှိဟု မှတ်။။။

၂။ ဂဏဝါစကစာချပုဂ္ဂိုလ်သည် ဤယနေ့ စာမပို့ချလျှင် ယနေ့ သာသနာ့ဝန်ထမ်း ရဟန်းတရားမတိုးပွား ဆုတ်ယုတ်သည်ဟု မှတ်။

၃။ ဘုရားဟောကျမ်းဂန်နှင့်အညီ မိမိအရည်အချင်းအလိုက် ကျမ်းဂန်မရေးသားသော ပုဂ္ဂိုလ်သည် ငါကား ဘုရားသာသနာတော်ကို မကွယ်မပျောက်အောင်ဆောင်ရွက်သောပုဂ္ဂိုလ်မဟုတ်ဟု မှတ်။

ထို့ပြင် စံကျောင်းဆရာတော်ကြီးက တပည့်တို့အား– ‘ရဟန်းခံ,သိမ်သမုတ်သောကိစ္စမှ အပ အတိရေကလာဘ်ကိုမငဲ့မကွက်ဘဲ အချိန်ရှိသရွေ့ပိဋကတ်တော်ကိုသာ စုတိစိတ်ကျခါနီး စိတ္တက္ခဏအထိ မခိုမကပ်မပြတ်မလပ်ချပို့မည်ဟု ပဋိညာဉ်ဝန်ခံချက်ပေးရမည်’ ဟု မိန့်တော်မူလေ့ရှိ၏။ မိန့်တော်မူတိုင်းပင် တပည့်အများကလည်း ထိုပဋိညာဉ်ဝန်ခံချက်ကို ပေပုရပိုက်၌ ရေးသားကြပြီးလျှင် ဆရာတော်ကြီး၏လက်တော်သို့ဆက်ကပ်ရသည်–ဟူ၏။

စံကျောင်းဆရာတော်ကြီးပြုစုတော်မူခဲ့သောကျမ်းဂန်တို့မှာ– (၁) စူဠဝါပါဠိတော်နိဿယ၊ (၂) ဓမ္မသင်္ဂဏီပါဠိတော်နိဿယ၊ (၃) ကင်္ခါစုဒ်စောဒနာ၊ (၄) ဋီကာကျော်ကျမ်းအချီး၊ (၅) ဋီကာကျော်စုဒ်စောဒနာ၊ (၆) ဝိနိစ္ဆယအဆုံးအဖြတ်အမျိုးမျိုး (ပေ ၂၃–အင်္ဂါ)တို့ဖြစ်ကြသည်။

စံကျောင်းဆရာတော်ကြီး၏ အန္တေဝါသိကတပည့်ရင်းဖြစ်တော်မူသော ပဏ္ဍိတဓဇသီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်နာမံရှိသော မိုင်းခိုင်းဆရာတော်ဦးပဏ္ဍိတက စံကျောင်းဆရာတော်ကြီးဦးသုဒဿန၏ဂုဏ်အထူးကိုဖော်ပြရာတွင်–

‘ဝသန္တဿ=ရဟန္တာငြိမ်း သူတော်လမ်းဖြင့် ဖြောင့်တန်းရှင်ပြီး သီတင်းသုံးတော်မူသော၊ ပိဋကတ္တယဆေကဿ=ပိဋကသုံးပုံ နည်းမျိုးစုံ၌ အကုန်လေ့လာ လိမ္မာတော်မူသော၊ သဒါ=အခါခပ်သိမ်း၊ သဒ္ဓမ္မဝါစိနော=ပရိယတ္တိသာသနာကို ကောင်းစွာသင်ပြ ပို့ချလေ့ရှိတော်မူသော၊ သုပေသလဿ= စာမရီတူ သီလကိုချစ်တော်မူသော၊

မိရသ=သူမတူတန် မြဲမြန်ခိုင်ခန့်သော သမာဓိက္ခန် လျှင်မြန်ထိုးထွင်းသော ဉာဏ်ပဋိဘာန်ရှိတော်မူသော၊ မုပဇ္ဈာယဿ(ဝါ) မံ ဉပဇ္ဈာယဿ (ဝါ) မေ ဉပဇ္ဈာယဿ= ငါ၏ဉပဇ္ဈာယ် ဆရာတော်ကြီး၏ (ဝါ) သုဒဿနဝရဓမ္မသာမိမဟာဓမ္မရာဇာဓိရာဇဂုရု-ဟူသော ပဌမတံဆိပ်နာမံတော်, သုဒဿနဓဇအတုလာဓိပတိသိရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု-ဟူသော ဒုတိယတံဆိပ်နာမံတော်ရှိသော ငါ၏ဉပဇ္ဈာယ်ဆရာတော်ကြီး' ဟူ၍ဖြစ်ပါသည်။*၁

စံကျောင်းတိုက်ကြီး၌ နာမည်ကျော် စာချဆရာတော်တစ်ပါးဖြစ်တော်မူသည့် စလင်းဦးပဏ္ဍိစ္စမထေရ်မြတ်ကမူ စံကျောင်းဆရာတော်ဘုရားကြီးအား-

'ရတနာဘုံစံအမည်ရှိသော မင်္ဂလာစံကျောင်းတော်၌သီတင်းသုံးနေတော်မူသော ငါတို့ဆရာဖြစ်တော်မူသော နေတစ်ဆူလတစ်ဆူ ဝိနယပါရဂူဖြစ်တော်မူ၍ ဇမ္ဗူကျွန်းခွင် မြေပြင်မဆန့် ပျံ့နှံ့သိခိုရ်(သီဟိုဠ်) ထုပ်ခြင်းလျှံအောင် ဂုဏ်ရောင်သတင်းကျော်စောခြင်းရှိတော်မူသော စံကျောင်းဆရာတော်ဘုရားကြီး'ဟု ဝိနည်းဂဏ္ဍိကျမ်းကြီး၌ ချီးကျူးထုတ်ဖော်ရေးသားတော်မူခဲ့ပါသည်။*၂

စံကျောင်းဆရာတော်ကြီး၏ခြေတော်ရင်း၌ ဝပ်စင်းကာပညာသင်ယူခဲ့ရသော လယ်တီဆရာတော်ကြီးလောင်းလျာ အရှင်ဉာဏကလည်း စံကျောင်းဆရာတော်ကြီးဦးသုဒဿန၏ဂုဏ်တော်ကို နောင်သောအခါ ဤသို့ရေးသားဖွဲ့ဆိုတော်မူခဲ့ပါသည်။

သာသနေ ဒါနိ ယေနေကေ၊ ဓမ္မဝိနယကောဝိဒါ။
ယဿ ပဘာဝနိဗ္ဗတ္တါ၊ သဗ္ဗေ တေ ပါယသော ဇနာ။

ဒါနိ-ဣဒါနိ= ယခုအခါကာလ၌၊ သာသနေ=ဗုဒ္ဓမြတ်စွာ ဤသာသနာတော်တွင်း၌၊ အနေကေ=များစွာကုန်သော၊ ယေဇနာ= အကြင်နဝ,မဇ္ဈိမ,ထေရဖြစ်ကုန်သော ရဟန်းတို့သည်၊ ဓမ္မဝိနယ ကောဝိဒါ= သုတ်,အဘိဓမ္မာ,ဝိနည်း၌ လိမ္မာကျွမ်းကျင် သိမြင်တတ်မြောက်ကြပေကုန်၏။ သဗ္ဗေ= အလုံးစုံကုန်သော၊ တေဇနာ= ထိုသုတ်,အဘိဓမ္မာ,ဝိနည်းကျမ်းဂန်၌ လိမ္မာကျွမ်းကျင် သိမြင်တတ်မြောက်ကြကုန်သောသူ ဟုဟူသမျှတို့သည်၊ ပါယသော-ယေဘုယျေန= များသောအားဖြင့်၊ ယဿ= အကြင်ငါတို့ကျေးဇူးအရှင် သုဒဿနဝရဓမ္မသာမိ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်နာမံရှိတော်မူသော စံကျောင်းဆရာတော်ဘုရားကြီး၏၊ ပဘာဝနိဗ္ဗတ္တါ= ဗျတ္တိဗလတည်းဟူသော အကြောင်းရင်းမူလရှိကြကုန်သည်သာလျှင်တည်း'-ဟူ၍ဖြစ်ပါသည်။*၃

---

*၁ မိုင်းနိုင်းဆရာတော်၏ တေပိဋကဝိနိစ္ဆယကျမ်း၊ ပထမတွဲ။ ၁၉၀၀-ပြည့်နှစ်။ (စာမျက်နှာ-၆၀၆)။

*၂ စလင်းဆရာတော်ကြီး၏ စလင်းဝိနည်းဂဏ္ဍိသစ်၊ ဒုတိယတွဲ။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၉၄-ခုနှစ်။ (စာမျက်နှာ-၆၀၈)။

*၃ လယ်တီဆရာတော်ကြီး၏ ပါရမီဒီပနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၅-ခုနှစ်။ (စာမျက်နှာ-၂၁၁)။

## ဒုတိယမြောက်ဝါကပ်ဆိုတော်မူခြင်း

အရှင်ဉာဏသည် သက္ကရာဇ် ၁၂၂၉–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၆၇–ခုနှစ်၊ ဇူလိုင်လ) တွင် မန္တလေးမြို့ မြောက်ပြင်စံကျောင်းတိုက်တွင် ဒုတိယမြောက်ဝါကို ကပ်ဆိုတော်မူခဲ့ပါသည်။ ဤဒုတိယဝါကား စံကျောင်းတိုက်ကြီးတွင် ရှေးဦးပထမကပ်ဆိုသောဝါဖြစ်ပါသည်။

ထိုနှစ် သီတင်းဝါလကျွတ်သောအခါ၌ နေပြည်တော်တွင် မီးစောင်းတန်းကြီးသွယ်တန်း ပူဇော်ပွဲကို ကြည့်ရှုခွင့်ရလေသည်။ ထို့ပြင် မင်းတုန်းမင်းကြီး၏မိဖုရားခေါင်ကြီး စကြာဒေဝီ မိဖုရားကြီး၏ကုသိုလ် 'ဘုရားသားတော်များ အပျင်းပြေ၍စိတ်ပျော်ရွှင်တော်မူကြပါစေ' ဆိုကာ ရွှေကျင်တိုက်နှင့် စံကျောင်းတိုက်တို့မှတပါး လေးပြင်လေးရပ်ရှိကျောင်းတိုက်အစေ့ သုံးရက်စီ နေ့တွင်ဇာတ်၊ ညတွင်ရုပ်သေးဟူ၍လှူဒါန်းရာ စာသင်သားအရွယ်ပျိုနုသေးသောအရှင်ဉာဏတို့မှာ လောကီသုတအနေဖြင့် အခြားသောကျောင်းတိုက်တစ်တိုက်တွင် ကြည့်ရှုခွင့်ရတော်မူခဲ့လေ၏။*၂

## အရှင်ဉာဏကိုချီးမြှောက်ခြင်း

စံကျောင်းဆရာတော်ကြီးသည် တိုက်အတွင်း၌ စာပေထူးချွန်ပြောင်မြောက်သူပုဂ္ဂိုလ်ကျော် တို့ကိုလည်း ထုတ်ဖော်ချီးမြှောက်ရန် အမြဲစူးစမ်းရှာဖွေအကဲခတ်နေတော်မူလေ့ရှိသည်။ ပရိယတ် စာပေကို အပတ်တကုတ်ကြိုးစားအားထုတ်နေသော အရှင်ဉာဏ၏သတင်းသည် စံကျောင်း ဆရာတော်ကြီးထံသို့ပေါက်ရောက်သောအခါ ဆရာတော်ကြီးက 'ထိုဦးပဥ္စင်းကို ငါ့ထံခေါ်လာ ရမည်' ဟု အမိန့်ရှိတော်မူသည်။

စံကျောင်းဆရာတော်ကြီးရှေ့တော်သို့ အရှင်ဉာဏရောက်တော်မူလျှင် ဆရာတော်ကြီးက ဘွဲ့အမည်၊ ဝါတော်၊ နေရပ်ဇာတိ၊ ဥပဇ္ဈာယ်ဆရာနှင့် သင်ကြားဆဲကျမ်းစာ စသည်တို့ကိုမေးမြန်း တော်မူ၏။ အရှင်ဉာဏက မိမိ၏ဘွဲ့အမည်မှာ 'ဉာဏဓဇ' ဖြစ်ကြောင်းလျှောက်ထားသည့်အခါ ဆရာတော်ကြီးက 'မင်းဘွဲ့က မဟာဆန်ပေသကိုးကွဲ့' ဟုမိန့်တော်မူပြီး 'ဉာဏာဘိဝံသ' ဟု ပြင်၍မှည့်ပေးတော်မူပါသည်။*၂ ထိုအခါမှစ၍ အရှင်ဉာဏသည် မိမိ၏ဘွဲ့အမည်ကို မန္တလေးမြို့ စံကျောင်းတိုက်၌ သီတင်းသုံးနေတော်မူစဉ်ကာလပတ်လုံး 'ဉာဏာဘိဝံသ' ဟု ခေါ်ဝေါ်သုံးစွဲ တော်မူခဲ့ပါသည်။*၃

---

*၁ တိုက်စိုး၏ မင်းတုန်းမင်း။ (စာမျက်နှာ–၅၅)။ ဤသို့ ငယ်စဉ်စာသင်သားဘဝ ကဇာတ်ရုပ်သေးပွဲ ကြည့်ရှုခွင့်ရခဲ့၍ နောင်အခါ သဘင်ဝန်ဦးသော် က,ပြသော အိမ့်တလိမ့်စုန်းမဇာတ်ကိုအခြေခံ၍ 'ဖြစ်မဆုံးနိုင်ဘု' အစရှိ လေးချိုးကြီးအဖြေ့ ဥပမာသာဓကအဖြစ် ထည့်သွင်းရှင်းပြတော်မူခဲ့ပါသည်။ လယ်တီဆရာတော်ကြီး၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ ၁၆၆–၁၆၈)။

*၂ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၅၅)။

*၃ ပါရမီဒီပနီကျမ်းနိဂုံးတွင် လယ်တီဆရာတော်ကြီးသည် 'မယာ ဉာဏာဘိဝံသေန' (ဉာဏာဘိဝံသေန–ဉာဏာဘိဝံသ အမည်ရှိသော၊ xxx မယာ–ငါသည်)–ဟု နိဂုံးဂါထာ၌ မိမိ၏ဘွဲ့အမည်ကို 'ဉာဏာဘိဝံသ' ဟုရေးသားခဲ့သည်။ လယ်တီ ဆရာတော်ကြီး၏ ပါရမီဒီပနီ။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၂၁၂)။

ထို့နောက် အရှင်ဉာဏ စာဝါလိုက်ရပုံတို့ကိုမေးမြန်းတော်မူပါသည်။ စံကျောင်းဆရာတော်ကြီးက အရှင်ဉာဏ၏ပညာအရည်အသွေးကိုကျေနပ်အားရတော်မူ၍ စံကျောင်းတိုက်အတွင်း၌ စာချအကျော်ဆရာတော်တစ်ပါးဖြစ်သော စလင်းဦးပဏ္ဍိစ္စကိုယ်တော်အားပင့်ခိုင်းပြီး 'မောင်စလင်းက သည်မောင်ပဥ္စင်းကို စာဝါဂရုတစိုက်ပို့ချပေးရမည်။ မောင်ပဥ္စင်းကလည်း မောင်စလင်းထံမှာ ဆိုဝါနှင့်တက်၊ ငါ့ထံမှာ လိုက်ဝါနှင့်သင်'ဟုအမိန့်ရှိကာ အရှင်ဉာဏကို ထိုအခါမှစ၍ စလင်းဘုန်းတော်ကြီးထံ၌ အပ်နှံတော်မူခဲ့ပါသည်။*၁

**စလင်းဦးပဏ္ဍိစ္စ**

အရှင်ဉာဏသည် စံကျောင်းဆရာတော်ကြီး၏အပ်နှံပေးတော်မူသောကြောင့် စလင်းဦးပဏ္ဍိစ္စ၏အတွင်းနေတပည့်အဖြစ်သို့ရောက်ရှိခဲ့ပါသည်။ ဤသို့ ဦးပဏ္ဍိစ္စ၏တပည့်ရင်းဖြစ်ခဲ့ရခြင်းသည် တစ်နည်းအားဖြင့် အရှင်ဉာဏ၏ပညာမျိုးစေ့ကို အောင်မြင်သောအသီးအပွင့်ဖြစ်လာအောင်စိုက်ပျိုးပြုစုပေးမည့် ဥယျာဉ်မှူးကောင်းတစ်ဦး၏လက်အတွင်းသို့ အပ်နှံလိုက်ခြင်းနှင့်တူပေသည်။

စလင်းဦးပဏ္ဍိစ္စသည် သက္ကရာဇ် ၁၂၀၅ (အေဒီ–၁၈၄၃)ခုနှစ်၊ စလင်းမြို့နယ်တောင်ဘက် ၁၄–မိုင်ခန့် ကွာဝေးသော ရွာခိုင်ရွာ(ယခု–ပွင့်ဖြူမြို့နယ်)တွင် သူကောင်းမျိုးမှဖွားမြင်ခဲ့ပါသည်။ အရွယ်ရောက်သော် ဘကြီးတော်စပ်သူစလင်းမြို့ပိုင် ကျွဲထိရွာကျောင်းဘုန်းကြီးဦးသြဘာသထံ လူဝတ်ဖြင့် ပညာသင်ယူခဲ့၏။ဦးသြဘာသကို မကွေးမြို့သူကြီးဦးရွှေပြည်က မကွေးမြို့အရှေ့ဘက်၌ လေးထပ်ကျောင်းဆောက်လုပ်လှူသောအခါ လေးထပ်ကျောင်းကြီးသို့ ဘကြီးတော်ဦးသြဘာသနှင့်အတူ ဦးပဏ္ဍိစ္စလောင်းလျာသည်လည်း ကျောင်းသားအဖြစ်လိုက်ပါခဲ့ရပြီး ထိုကျောင်း၌ ကိုရင်ဝတ်ခဲ့၏။ ထိုမှ ရှင်ပဏ္ဍိစ္စအရွယ်ရောက်လာသော် ဘကြီးဘုန်းကြီးဦးသြဘာသသည် ခုနစ်ဂိုဏ်းချုပ်ဖြစ်လာ၍ နေပြည်တော်နှင့်အဆက်အသွယ်ရကာ ရှင်ပဏ္ဍိစ္စကို မန္တလေးမြို့ မဏ္ဍလာရာမပြည်တိုက်၌ အပ်နှံပေးတော်မူပါသဖြင့် ပြည်တိုက်သို့ရောက်၍ ပြည်ဆရာတော်ကြီး၏တပည့်ဖြစ်တော်မူခဲ့ရပြန်ပါသည်။ ရှင်သာမဏေအဖြစ်နှင့် ပြည်ဆရာတော်ကြီးထံ ပုဒ်စစ်စာဝါစသည်တို့ကိုလိုက်ခဲ့ရ၏။*၂ သက္ကရာဇ် ၁၂၂၅(အေဒီ–၁၈၆၃)ခုနှစ်တွင် မကွေးလေးထပ်ဆရာတော်ကိုဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ရောက်၏။ သက္ကရာဇ် ၁၂၂၆(အေဒီ–၁၈၆၄)ခုနှစ် ပထမစံကျောင်းဆရာတော်ဦးစန္ဒိမာ ပြန်လွန်တော်မူ၍ ပြည်ဆရာတော်ကြီး စံကျောင်းတိုက်သို့ ရွှေ့ပြောင်းသီတင်းသုံးတော်မူသောအခါ ရဟန်းတစ်ဝါရ ဦးပဏ္ဍိစ္စလည်း စံကျောင်းတိုက်သို့ အတူလိုက်ပါခဲ့ရ၍ စံကျောင်းတိုက်သားဖြစ်ခဲ့ရလေသည်။*၃

---

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၅၅)။

*၂ ဦးပဏ္ဍိစ္စ၏ စလင်းဝိနည်းဂဏ္ဍိသစ်ကျမ်း၊ ပထမတွဲ။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ–၁၉၊ ၆၁)။

*၃ ဦးစန္ဒိမာ(စလင်း)၏ စလင်းမြို့ကလင်းတဲ့အရောင်။ ကြီးပွားရေးပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၂၀၀၃–ခုနှစ်။ (စာမျက်နှာ–၆၄)။

ပြည်ဆရာတော်ကြီးပြန်လွန်တော်မူသော် ဦးပဏ္ဍိစ္စသည် စံကျောင်းတိုက်မှာပင် တတိယ စံကျောင်းဆရာတော်ဦးသုဒဿနထံ နိဿယယူ၍ဆက်လက်သင်ယူနေတော်မူခဲ့သည်။ စံကျောင်းဆရာတော်ကြီးဦးသုဒဿန သည် ဦးပဏ္ဍိစ္စနှင့်တွေ့စအခါကပင် အနာဒရအနက်ပေးပုံကိုမေးမြန်းတော်မူရာ ဦးပဏ္ဍိစ္စက ပြည်ဆရာတော်ကြီး၏အနက်ပေးပုံ*[၁]ကိုလျှောက်ထားနိုင်သဖြင့် စံကျောင်းဆရာတော်ကြီးက ဤအနက်ပေးပုံသည် ဝိနယာလင်္ကာရဋီကာ၊ ဂရုကာပတ္တိဝုဋ္ဌာနဝိနိစ္ဆယ(ဝိနယာလင်္ကာရ၊ ၂။ ၂၁၈။) စသည်တို့မှာလာရှိသော 'ပက္ခမာနတ္တံ စရန္တီ ယာတိ အနာဒရေ သာမိဝစနံ၊ ပက္ခမာနတ္တေ အစိဏ္ဏေယေဝါတိ အတ္ထော'–ဟူသောစကားနှင့်ညီညွတ်ပါပေသည်ဟု ချီးမွမ်းတော်မူခဲ့ပါသည်။*[၂]

ထိုအခါမှစ၍ ဦးပဏ္ဍိစ္စ၏စွမ်းရည်ကိုသိသည့်အလျောက် စံကျောင်းဆရာတော်ကြီးက မိမိထံတော်၌စာဝါလိုက်စေပြီး၊ စာသင်သားငယ်တို့ကိုလည်း 'စာချလက်သင်၊ ဆက်စာသင်' ဟူသောစနစ်ဖြင့် စာပို့ချရန်တာဝန်အပ်နှင်းတော်မူခဲ့လေသည်။ နောင်အခါ၌ စံကျောင်းဆရာ တော်ကြီးက ဦးပဏ္ဍိစ္စကို မိမိထံမှာစာဝါမတက်စေတော့ဘဲ လိုအပ်သောအချက်၊ ခက်ခဲသော အချက်တို့ကိုသာ လာရောက်မေးစေပြီး စံကျောင်းတိုက်အတွင်း ဂဏဝါစကစာချအဖြစ်ခန့်ထား တော်မူခဲ့ပါသည်။ ဦးပဏ္ဍိစ္စသည် စာချအဖြစ်သို့ရောက်သောအခါ ရှေးဆရာစဉ်ဆက် ဆုံးဖြတ် ချက်အထွေထွေ သဒ္ဒါနေအခန်းခန်း ကျမ်းရိုးကျမ်းတက်အဖြာဖြာတို့ကို ရောမွှေထည့်စွက်ကာ ဆက်စပ်ပို့ချတတ်သောကြောင့် စာသင်သားတို့ သဘောဉာဏ်သက်ဝင် အသိဉာဏ်လျင်စွာ ထင်မြင်စေခဲ့သဖြင့် စံကျောင်းတိုက်ကြီးအတွင်း၌ စာသင်သားတို့လွန်စွာနှစ်ခြိုက်သော စာချပုဂ္ဂိုလ် တစ်နည်း 'လင်းပဏ်'*[၃] ဟူသောအမည်တူးဝိသေသဖြင့် ထင်ရှားသောမထေရ်အဖြစ်သို့ရောက်ရှိ ခဲ့ပါသည်။

## စလင်းဦးပဏ္ဍိစ္စ၏ တပည့်

စလင်းဦးပဏ္ဍိစ္စနှင့် လယ်တီဆရာတော်လောင်းလျာအရှင်ဉာဏတို့သည် ဆရာတပည့် ဆိုသော်လည်း သက်တော်ဝါတော်မှာ သုံးနှစ်သာကွာခြားသည့်အတွက် ဆရာတပည့်ထက် ညီရင်းအစ်ကိုတမျှ ချစ်ခင်ရင်းနှီးခြင်းသို့ရောက်ခဲ့ကြလေသည်။ အရှင်ဉာဏအဖို့မှာ စလင်း ဘုန်းကြီးထံ၌ စာပေသင်ယူမှုအတွက်သာမက၊ မည်သည့်ကိစ္စအတွက်မဆို ပွင့်ပွင့်လင်းလင်း တိုင်ပင်ရအားကိုးရသော နောင်တော်ကြီးသဖွယ်လည်းဖြစ်ခဲ့သည်။ စလင်းဦးပဏ္ဍိစ္စထံမှ ဝိနည်းပိဋက ပါစိတ်ပါဠိတော်နှင့်မဟာဝါပါဠိတော်တို့၏အဖွင့် ပါစိတျာဒိအဋ္ဌကထာ၊ အဘိဓမ္မာပိဋက ဝိဘင်းပါဠိတော်အဖွင့် သမ္မောဟဝိနောဒနီအဋ္ဌကထာ၊ ဓာတုကထာ၊ ယမိုက်၊ ပဋ္ဌာန်းအဖွင့် ပဉ္စပကရဏအဋ္ဌကထာတို့ကို သင်ယူတော်မူခဲ့ပါသည်။

---

*၁ ပြည်ဆရာတော်ကြီးက အနာဒရကို သတ္တမီဝိဘတ်နှင့်ဖွင့်၍ အနက်ပေးတော်မူပုံကို စလင်းဝိနည်းဂဏ္ဌိသစ်ကျမ်း၊ ပထမ တွဲ။ (စာမျက်နှာ–၆၁)၌ရှုပါ။

*၂ စလင်းဦးပဏ္ဍိစ္စ၏ စလင်းဝိနည်းဂဏ္ဌိကျမ်း၊ ပထမတွဲ။ ၁၉၉၆–ခုနှစ်။ (စာမျက်နှာ–၆၁)။

*၃ 'လင်းပဏ်'ဟူသည် စလင်းမြို့ဇာတိ ဦးပဏ္ဍိစ္စကို အတိုခေါ်ခြင်းဖြစ်သည်။

ဤသို့သင်ယူနေစဉ်အတွင်း စလင်းဘုန်းကြီးထံမှ ပညာရေးနှင့်သက်ဆိုင်သောအလေ့ကောင်းတစ်ခုကို အရှင်ဉာဏ ဆရာ့လက်ဆုပ်အဖြစ်ရရှိခဲ့လေသည်။ ထိုအလေ့မှာ ထိုထိုသောကျမ်းဂန်စာပေတို့ကိုဖတ်ရှုရာ၌ မှတ်သင့်မှတ်ထိုက်သောအချက်တို့ကို မှတ်စုရေးသားပြီး စုဆောင်းသောအလေ့ပင်ဖြစ်သည်။ လောကဘက်၌ ငွေကြေးကြွယ်ဝလိုသူသည် ဥစ္စာပစ္စည်းကို စနစ်တကျစုဆောင်းရန်လိုအပ်သကဲ့သို့ ပညာရေးဘက်၌လည်း ပညာရှင်ဖြစ်လိုသူသည် မိမိရှာဖွေသိရှိရသောအချက်အလက်တို့ကို စနစ်တကျခွဲဝေမှတ်သားထားရှိရန် လိုအပ်လှပေသည်။

စံကျောင်းဆရာတော်ကြီးက စလင်းဦးပဏ္ဍိစ္စကို 'မိမိထံအခါမရွေး စာမေးလာစေ' ဟုအရေးပေးခဲ့သည့်အတွက် ဦးပဏ္ဍိစ္စကလည်း ရှေးရှေးသောအခါက စံကျောင်းဆရာတော်ကြီးတို့ဆုံးဖြတ်ခဲ့ကြသော ဝိနည်းဆိုင်ရာပရမ္ပရာကတဝိနိစ္ဆယခေါ် ရှေးထုံးဟောင်းဖြတ်ဟောင်းများကိုမေးမြန်းစုံစမ်းတော်မူလေ့ရှိပါသည်။ ဝိနည်းငါးကျမ်းပါဠိတော်၌ မရှင်းလင်းခက်ခဲသောဌာနများကိုစံကျောင်းဆရာတော်ကြီးထံ မေးမြန်းလျှောက်ထားခဲ့ပြီး၊ ဆရာတော်ကြီးဖြေကြားသောအချက်တို့ကိုလည်း မှတ်သားထားသဖြင့် အချိန်ကြာလာသည်နှင့် ဦးပဏ္ဍိစ္စအဖို့ ဝိနည်းငါးကျမ်းလုံးအတွက်မပေါ်လွင်သောအနက်သဒ္ဒါ၊ အသိခက်ခဲသောအချက်အလက်အဖုအဆစ်ဟူသရွေ့ မရှိတော့ဘဲဝိနည်းဆိုင်ရာဂဏ္ဌိ ကျမ်းတစ်စောင်တစ်ဖွဲ့ရေးနိုင်တော့မည့်အခြေအနေသို့ရောက်သည့်တိုင်အောင်စုဆောင်းရမိခဲ့ပါသည်။ ဤသို့ စလင်းဦးပဏ္ဍိစ္စ စုဆောင်းရေးမှတ်နေမှုကို အနီးနေတပည့်ကြီးများကလည်း ဝိုင်း၍ကူညီကြရသည်။

ဦးပဏ္ဍိစ္စသည် အရှင်ဉာဏကိုလည်း မိမိ၏ဝိနည်းဆိုင်ရာမှတ်စု စုဆောင်းမှုလုပ်ငန်းကြီးကိုပြသပြီး ဆရာတော်များထံစာလိုက်လျှင် ပေပုရပိုက်များမှာ မှတ်သင့်သောအချက်အလက်တို့ကိုမှတ်စုထုတ်ထားရန် သင်ကြားပြသပြီး 'နားထောင်ရုံဖြင့် မတတ်သေးဘူးကွဲ့၊ လက်ကလည်းရေးလိုက်ဦး၊ ဒါမှပိုစိတ်ချရတယ်' စသည်ဖြင့်ဆုံးမပြောကြားတော်မူလေရာ အရှင်ဉာဏသည်ဆရာသမားဆုံးမသည့်အတိုင်း မှတ်သင့်မှတ်ရာအဖြာဖြာတို့ကို ပေပုရပိုက်ထဲတွင် မှတ်သားထားခဲ့ပါသည်။ စံကျောင်းဆရာတော်ဘုရားကြီးထံ ဝိနည်းပါဠိတော်ကို လိုက်ဝါဖြင့်လိုက်နေစဉ် စံကျောင်းဆရာတော်ဘုရားကြီးမိန့်ကြားသည့် ဝိနည်းအဆုံးအဖြတ်အယူအဆများကိုရေးမှတ်ထားခဲ့ရာအရှင်ဉာဏသည်လည်း ဆရာဖြစ်သူ ဦးပဏ္ဍိစ္စကဲ့သို့ပင် တိုတောင်းသောအချိန်ကာလအတွင်းမှာပင် ပုရပိုက်အဆူဆူတို့၌ ဝိနည်းဆိုင်ရာမှတ်စုများစွာကို စုဆောင်းရမိလေသည်။

ထိုစဉ်က လယ်တီဆရာတော်ကြီးလောင်းလျာအရှင်ဉာဏမှတ်သားခဲ့မိသော ဝိနည်းဆိုင်ရာမှတ်စုအချို့တို့မှာ–

'ကပ္ပိခြင်းငါးပါးတွင် ဂီ ဖြင့်ကပ္ပိနည်းကိုပြရာ၌– လူသာမဏေလက်မှာရှိစဉ်ကပ္ပိစေမှုအပ်ကြောင်းကို အုတ်ကျောင်းဆရာတော်လည်းဆုံးဖြတ်၏။ သုဒ္ဒသဝိလာသနီမည်သော ဆန်းဋီကာကိုပြုစီရင်တော်မူသော ဆိတ်ဖြူဆရာတော်သည်ကျောင်းပေါ်ကနေ၍ 'ကပ္ပိယံ ကရောဟိ' ဟုဆိုလိုက်၏။ ကျောင်းအောက် မီးတင်း

ကုတ်၌နေလျက် သာမဏေသည် 'ကပ္ပိယံ ဘန္တေ' ဆို၍ မီးဖြင့်ထိပါးစေလျက် ကပ်လာသည်ကိုတွေ့မြင်ဖူးသည်ဟု တို့ကျေးဖူးရှင်စံကျောင်းဆရာတော်ကြီးမိန့်ဖူး၏' – ဟူ၍လည်းကောင်း။[*၁]

ရဟန်းလောင်းသည် ပဋိသန္ဓေလ,ရက်တို့ကိုလည်းစွက်၍ အသက်–၂၀ ပြည့်ရမည်ဟူသော အယူအဆမျိုး၌–

'ရဟန်းလောင်း၏အမိဖြစ်သူက သူ၏သားသည် ဆယ်လဖွားဖြစ်ပါသည်ဟု အတပ်ပြောသော်လည်း အမှန်မုချအယုံရခက်လှသောအရာမျိုးဖြစ်ခဲ့၍ အယုတ်ဆုံးအားဖြင့် ခုနစ်လဖွားကိုအတည်ပြု၍ ၁၉–နှစ်နှင့် သုံးလအောက်မယုတ်စေရ၊ ပိုလျှင် သာ၍ပိုစေရမည်–ဟု ငါတို့ကျေးဖူးရှင်စံကျောင်းဆရာတော်ဘုရားကြီးမိန့်တော်မူ၏' – ဟူ၍လည်းကောင်း။[*၂]

ကမ္မဝါဖတ်ခြင်း၌ တားမြစ်မှုကြောင့်ကံပျက်ပုံနှင့်စပ်လျဉ်း၍–

'နှစ်ပါး,သုံးပါးပြိုင်၍ဖတ်ကြရာ၌ တစ်ပါးပါးကနောက်ကျ၍နေခဲ့သော်လည်းကောင်း၊ စာပျောက်၍နေခဲ့သော်လည်းကောင်း ရပ်ပါဦး,ဆိုင်းပါဦးဟုဆိုကြသည်များကို တားမြစ်ရာရောက်သည်–ဟု ငါတို့ကျေးဖူးရှင်စံကျောင်းဆရာတော်ဘုရားကြီး အယူရှိတော်မူ၏' ဟူ၍လည်းကောင်း။[*၃]

သိတင်းကျွတ်လဆန်းကိုးရက်နေ့၌ သတ္တာဟဆောင်၍ ဝါပန်ပြီးထွက်သွားသောရဟန်းမျိုးနှင့် စပ်လျဉ်း၍–

'အချို့ကား ဝါမပန်ဘဲ ထိုလဆန်းကိုးရက်နေ့၌ထွက်သွားကြ၏။ ငါတို့ ကျေးဖူးရှင်ဆရာတော်ကြီးကား ဝါပန်၍သွားရမည်ဟုမိန့်၏' –ဟူ၍လည်းကောင်း[*၄] မှတ်သားမိခြင်းမျိုးဖြစ်သည်။

ထို့ပြင် စံကျောင်းဆရာတော်ကြီး၏ကမ္မဝါဖတ်နည်းအဆုံးအဖြတ်၊ ပရမတ်နှင့်ပညတ်အထူး၊[*၅] ပဉ္စသီလဝိနိစ္ဆယအဆုံးအဖြတ်နှင့် ဝိနည်းဆိုင်ရာအဆုံးအဖြတ်ဝိနိစ္ဆယတို့ကိုလည်း သီးခြားရေးကူးမှတ်သားထားတော်မူခဲ့ပါသည်။

အရှင်ဉာဏသည် စလင်းဦးပဏ္ဍိစ္စ၏ထံတော်ပါး၌ မိမိနှင့်အကျင့်စရိုက်မတူသူ စာသင်ဖက်များနှင့်ဆုံဆည်းမိသဖြင့် စိတ်ညစ်ခဲ့ရပါသည်။ ကြုံတွေ့ရပုံမှာ– အချို့သော စာသင်သားရဟန်းတော်များသည် မိမိတို့၏အရပ်သို့ခေတ္တပြန်ကြပြီး စံကျောင်းတိုက်သို့ပြန်လည်ရောက်လာ

---

*၁ လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၃၉)။

*၂ လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁၂၃)။

*၃ လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁၃၆)။

*၄ လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁၇၇)။

*၅ လယ်တီဆရာတော်ကြီး၏ လယ်တီဝိနိစ္ဆယသူစိ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ ၁၀၀–၁၀၄)။

ကြသောအခါ ရပ်ရွာမှလှူလိုက်သော 'စကုစပျတ်ဆန် (ထိုခေတ်က အကောင်းစားဆန်) ဘယ်နှစ်အိတ်ပါလာသည်၊ ထန်းလျက်ကမည်မျှ၊ ဆီကမည်မျှ၊ ဆား၊ ငရုတ်၊ ငါးခြောက်ငါးခြမ်း စသည်တို့ကမည်မျှ'-စသည်ဖြင့်စကားဝိုင်းကြီးဖွဲ့ကာ စာရင်းချပြီးပြောဆိုလျက်နေကြ၏။ ပညာရေးကိုသာလိုလားနေသောအရှင်ဉာဏအဖို့မှာ ထိုကိုယ်တော်တွေ စားရေးသောက်ရေးကိစ္စတို့ဖြင့် ပြောဆိုအချိန်ဖြုန်းနေသည်ဟုယူဆမိသဖြင့် ယင်းတို့နှင့်အတူနေရသည်ကို စိတ်ညစ်ဖွယ်အဖြစ် ကြုံခဲ့ရခြင်းဖြစ်ပါသည်။

ဤအချက်နှင့်စပ်၍လည်း နောင်အခါတွင် လယ်တီဆရာတော်ကြီးက တပည့်ဖြစ်သူ ဦးဝဏ္ဏိတအား-

'ငါနှင့်မျက်နှာကြောမတည့်တာ တစ်ချက်ရှိတယ်ကွဲ့။ ငါက စလင်းမြို့သားတွေနဲ့နေရတယ်၊ သူတို့ရပ်ရွာကပြန်လာတယ်ဆိုရင် ရွာကပါလာတဲ့ ဆန်တွေ ဆီတွေ စာရင်းကြီးဖွဲ့ပြီး စကားဝိုင်းခင်းနေလေ့ရှိတယ်ကွဲ့။ ဒီက စာချမယ့်ပုဂ္ဂိုလ်က သူတို့ကိုစောင့်နေရလို့ အချိန်ကုန်လိုက်တာ၊ တို့ရွာကိုပြန်သွားတော့ အဘွားက ပဲလှော်တို့ ပေါက်ပေါက်တို့ထည့်ပေးလိုက်တယ်၊ တို့ယူလာပြီးဝေခြမ်းလိုက်တာပဲ'ဟု မိန့်ကြားတော်မူခဲ့ဖူးပါသည်။*၁

## ဦးခေမိန္ဒထံ စာလိုက်ခြင်း*၂

အရှင်ဉာဏသည် စံကျောင်းဆရာတော်ကြီးနှင့် စလင်းဆရာတော်တို့ထံ စာဝါလိုက်ပြီးသည့်နောက် စံကျောင်းတိုက်အတွင်း၌ စာချအကျော်ပုဂ္ဂိုလ်တစ်ပါးဖြစ်သော ဆရာတော်ဦးခေမိန္ဒထံ ပါရာဇိကဏ်အဋ္ဌကထာစာဝါကို လိုက်တော်မူပါသည်။ ဆရာတော်ဦးခေမိန္ဒသည် သက္ကရာဇ်-၁၁၉၅ (အေဒီ-၁၈၃၃)ခုနှစ်ဖွားဖြစ်၍ စံကျောင်းဆရာတော်ဦးသုဒဿန၏ယေယတပည့်ရင်းလည်း ဖြစ်တော်မူပါသည်။

## အလုံဦးပဏ္ဍိတထံစာလိုက်ခြင်း*၃

စံကျောင်းတိုက်ကြီး၌ အရှင်ဉာဏစာသင်သားအဖြစ်ရှိတော်မူစဉ်က 'လုံပဏ်၊ လင်းပဏ် ထိုနှစ်ပဏ်၊ ဘယ်ပန်သာ၍တတ်သနည်း'ဟူသော အမေးပုစ္ဆာပေါ်ခဲ့ဖူး၏။ ထိုပုစ္ဆာပါ 'လုံပဏ်' ဆိုသည်ကား အလုံမြို့ သာစည်ရွာဇာတိ နောင်အခါ မိုင်းနိုင်းဆရာတော်ဟုထင်ရှားသောဦးပဏ္ဍိတ ဖြစ်ပြီး၊ 'လင်းပဏ်'ဆိုသည်ကား စလင်းမြို့ ရွာခိုင်ရွာဇာတိ ဦးပဏ္ဍိစ္စဖြစ်သည်။

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၁၇၃)။

*၂ ဦးခေမိန္ဒသည် နောင်အခါ မန္တလေးတောင်ခြေ၌ မကုဋာရာမတိုက်ကို အလှူခံရရှိတော်မူသဖြင့် 'မကုဋာရာမဆရာတော်' ဟူ၍ ထင်ရှားတော်မူခဲ့သည်။ ထို့ပြင် 'ရာဇဂုရု' တံဆိပ်တော်ကိုလည်း အလှူခံရရှိခဲ့သည်။

*၃ အလုံဦးပဏ္ဍိတသည် နောင်အခါ မိုင်းနိုင်းဆရာတော်ဟုလည်းကောင်း၊ ရွှေရေးဆောင်ဆရာတော်ကြီးဟုလည်းကောင်း ထင်ရှားတော်မူခဲ့သည်။ သိက္ခာ ၂၃-ဝါတွင် ပဏ္ဍိတဓဇသီရိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု-တံဆိပ်တော် အလှူခံရရှိခဲ့ပါသည်။ ဦးစန္ဒိမာ၏ ရွှေရေးဆောင်ခေတ်သုံးခေတ်။ ဣန္ဒာသယပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၃၆-ခုနှစ်။ (စာမျက်နှာ-၆၁)။ အရှင်ကေလာသ၏ မန္တလေးသာသနာဝင်၊ ပထမတွဲ။ ၁၉၈၀-ပြည့်နှစ်။ (စာမျက်နှာ-၃၉၇)။

မိုင်းခိုင်းဆရာတော်ဦးပဏ္ဍိတသည် အလုံမြို့ သာစည်ရွာ၌ ၁၂၀၄–ခုနှစ်၊ တပေါင်းလဆုတ် ၁–ရက် (အေဒီ–၁၆၊ မတ်လ၊ ၁၈၄၃–ခုနှစ်)တွင် သူကြီးရိုးရာမိဘတို့မှဖွားတော်မူပြီး၊ သက်တော် ခုနစ်နှစ်သားအရွယ်တွင် ဂိုဏ်းချုပ်ဆရာတော်အရှင်ရေဝတမထေရ်ထံတွင် မိဘတို့အပ်နှံကြသဖြင့် ကျောင်းသားဘဝနှင့် ပညာသင်ယူတော်မူခဲ့ပါသည်။ ရှင်သာမဏေပြုသော် ဘွဲ့တော်မှာရှင်ပဏ္ဍိတ– ဖြစ်သည်။ ရှင်သာမဏေဘဝမှာပင် သင်္ခေပဋီကာ၊ အဘိဓမ္မတ္ထဝိဘာဝိနီဋီကာ၊ အဋ္ဌသာလိနီ၊ မူလဋီကာစသော အဘိဓမ္မာပိဋကကျမ်းများစွာကိုသင်ယူတော်မူခဲ့ပြီး၊ သက်တော်(၁၇)နှစ်တွင် မင်းကွန်းမြောက်ဘက် အုန်းသဖင်ရွာ ကလ္လနသာလတောင်၌သီတင်းသုံးတော်မူသော စံကျောင်း ဆရာတော်ကြီးဦးသုဒဿန၏ခြေတော်ရင်းသို့ရောက်ရှိသည်။ စံကျောင်းဆရာတော်ကြီးကိုယ်တော် တိုင် စာပေပရိယတ္တိသင်ကြားပို့ချပေးတော်မူရာ ပညာဉာဏ်ထက်မြက်သောကြောင့် သက် နှစ်ဆယ်စေ့ရောက်သော် သက္ကရာဇ် ၁၂၂၄–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၆၂–ခုနှစ်၊ ဇူလိုင်လ)တွင် ဆင်ဖြူမရှင်မိဖုရားကြီး၏ ပစ္စယာနုဂ္ဂဟဖြင့် စံကျောင်းဆရာတော်ကြီးအားဥပဇ္ဈာယ်ပြုကာ ရဟန်း အဖြစ်သို့ရောက်တော်မူခဲ့သည်။ ရဟန်းဖြစ်ပြီး စံကျောင်းဆရာတော်ကြီးဦးသုဒဿနနှင့်အတူ စံကျောင်းတိုက်သို့လိုက်ပါလာခဲ့ပြီး ရဟန်းသိက္ခာငါးဝါအရတွင် ဂဏဝါစကတိုက်စာချ၊ ရဟန်း ၁၁– ဝါအရတွင် ပထမစာတော်ချ ဖြစ်တော်မူပါသည်။

မိုင်းခိုင်းဆရာတော်လောင်းလျာ အလုံဦးပဏ္ဍိတသည် စံကျောင်းဆရာတော်ကြီး အလွန် အားကိုးရသော သဒ္ဒိဝိဟာရိကတပည့်ရင်းဖြစ်၏။ နန်းတော်ကြီးမှ စံကျောင်းဆရာတော်ကြီးထံသို့ မေးလျှောက်လာသောမေးခွန်းအချို့ကို ဆရာတော်ကြီးကိုယ်တော်စား ဦးပဏ္ဍိတပင် ဖြေကြား ပေးရသောကြောင့် ဦးပဏ္ဍိတသည် စံကျောင်းတိုက်၌ ဝါငယ်သော်လည်း ပညာအရည် အသွေးထက်မြက်သောပုဂ္ဂိုလ်ကျော်တစ်ဦးဖြစ်ခဲ့သည်။

ထိုစဉ်က စံကျောင်းတိုက်အတွင်း၌ အလုံဦးပဏ္ဍိတနှင့် စလင်းဘုန်းကြီးဦးပဏ္ဍိစ္စတို့နှစ်ပါး စလုံးသည် စာချအကျော်ချည်းဖြစ်ကြ၏။ စလင်းဘုန်းကြီးထံစာဝါကိုလိုက်လျှင် အလုံဘုန်းကြီး ထံသို့ စာဝါကိုလိုက်လေ့မရှိ။ တဖန် အလုံဘုန်းကြီးထံစာဝါကိုလိုက်နေသူကလည်း စလင်း ဘုန်းကြီးထံသို့ စာဝါကိုလိုက်လေ့မရှိ။ စာချပုဂ္ဂိုလ်တစ်ပါးကိုသာအသေထား၍ စာဝါလိုက်လေ့ ရှိရာတွင် အရှင်ဉာဏမှာကား စလင်းဘုန်းကြီး၏နိဿယည်းယူအတွင်းနေတပည့်ဖြစ်သော်လည်း 'တစ်ကျောင်းတစ်ဂါထာ၊ တစ်ရွာတစ်ပုဒ်ဆန်း၊ တစ်ကျမ်းတစ်ဝါဒ၊ စာတစ်ခါချ တစ်နည်း' ဆိုသကဲ့သို့ တစ်ပါးနည်းကောင်းများလည်းရှိတတ်ပေရာ အလုံဦးပဏ္ဍိတ၏စာဝါတို့ကိုလည်း ကြိုးစား၍မှတ်သားနာယူခဲ့ပါသည်။

အရှင်ဉာဏသည် အလုံဦးပဏ္ဍိတထံ၌ အဘိဓမ္မာပါဠိတော်နှင့်အဋ္ဌကထာတို့ကိုလိုက်ခဲ့ဟန် ရှိသည်။ အလုံဦးပဏ္ဍိတငယ်စဉ်က ဥပဇ္ဈာယ်ဂိုဏ်းချုပ်ဆရာတော်ကြီးထံ၌ အဘိဓမ္မာပါဠိတော်ကို ကျမ်းဂန်နှင့်တကွလေ့လာပြွန်းတီးခဲ့ပြီးနောက် စံကျောင်းဆရာတော်ကြီးထံတော်၌ ဝိနည်းပိဋက

တော်ကို ကျနသေချာလိုက်နာမှတ်ယူနေခြင်းဖြစ်လေရာ ဝိနည်းအဘိဓမ္မာ စွယ်စုံရပုဂ္ဂိုလ်ကျော် ဖြစ်ပါသည်။

**စာသင်ဖက်မိတ်ဆွေများ**

စံကျောင်းတိုက်၌ လယ်တီဆရာတော်ကြီးလောင်းလျာအရှင်ဉာဏ သီတင်းနေစဉ်အခါက စာသင်ဖက်မိတ်ဆွေများစွာကိုလည်းရရှိတော်မူခဲ့ပါသည်။ ထိုသီတင်းသုံးဖော်စာသင်ဖက်တို့မှာ အမရပူရဇာတိ အရှင်ဝိသုဒ္ဓ၊ တောင်သာမြို့ဇာတိ အရှင်အာဒိစ္စ၊ မြင်းခြံမြို့ဇာတိ အရှင်ဝိစာရ၊ ရမည်းသင်းဇာတိ အရှင်အာဒိစ္စ၊ ဒီပဲယင်း ပေါင်းထောင်ကူးရွာဇာတိ အရှင်ပဏ္ဍိ၊ စစ်ကိုင်း စာရေးရွာဇာတိ အရှင်ဇဝန၊ ညောင်ဦးမြို့ဇာတိ အရှင်ကိတ္တိ၊ မကွေးမြို့ဇာတိ အရှင်မုနိန္ဒ၊ မုံလှရွာဇာတိ အရှင်ပရမ၊ မြင်းခြံတလုပ်မြို့ဇာတိ ဦးအာစာရ၊ တောင်တွင်းကြီးမြို့ လှိုင်ရွာဇာတိ အရှင်သုမန၊ မြိုင်မြို့နယ် ဝါးတန်းရွာဇာတိ အရှင်ပညာ၊ မန္တလေးအနောက် အာလောင်ကျွန်း ဇာတိ အရှင်ပဏ္ဍာဝံသ၊ ရမည်းသင်းခရိုင် အုပ်ရစ်ကုန်းရွာဇာတိ အရှင်နန္ဒိယ၊ ရမည်းသင်းမြို့ အုန်းပင်ရပ်ဇာတိ အရှင်ဉာဏ၊ ညောင်ရမ်းမြို့အပိုင် ကန့်ဖြူရွာကြီးဇာတိ အရှင်ကဝိန္ဒ၊ စလင်းမြို့ ဇာတိ အရှင်ကောဏ္ဍညနှင့် ပန်းတင်ကျောင်းဘုန်းကြီးအရှင်နာဂ၊ စစ်ကိုင်းတင်းတိပ်ရွာဇာတိ အရှင်ပဒုမနှင့် ပင်းမြို့ဇာတိအရှင်ပဏ္ဍိစ္စ–စသည့်အရှင်မြတ်တို့ဖြစ်ကြပါသည်။

ထိုအရှင်မြတ်တို့တွင် အမရပူရဇာတိ အရှင်ဝိသုဒ္ဓ*[၁] သည်ကား သက္ကရာဇ်–၁၂၀၆ (အေဒီ–၁၈၄၄)ခုနှစ်ဖွားဖြစ်၍ အသက် ၁၀–နှစ်ကပင် ဘုံကျော်ဆရာတော်ထံရောက်၍ ပညာသင်ယူခဲ့ပြီး၊ ၁၄–နှစ်အရွယ်၌ သာမဏေဝတ်ခဲ့၏။ သက္ကရာဇ်–၁၂၂၆ (အေဒီ–၁၈၆၄)ခုနှစ်၌ ဘုံကျော်ဆရာ တော်ကြီးကိုပင်ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ရောက်တော်မူပါသည်။ သက္ကရာဇ်–၁၂၃၃ (အေဒီ–၁၈၇၁)ခုနှစ် ရဟန်းခုနှစ်ဝါအရတွင် စံကျောင်းတိုက်သို့ရောက်ရှိကာ စံကျောင်းဆရာတော်ထံ၌ပင် ပညာသင်ယူတော်မူပါသည်။ ရဟန်းရှစ်ဝါအရတွင် မြေနန်းတော်၌ကျင်းပသော စာတော်ပြန်ပွဲ ကြီး၌ အဘိဓမ္မာပိဋက၊ ဗျာနဝိဘင်းပါဠိတော်နှင့် ပဋ္ဌာန်းပါဠိတော်တို့ကိုအာဂုံပြန်ဆိုနိုင်၍ အဘိဓမ္မ ဘာဏကဆင်စွယ်တံဆိပ်တော်ကိုရရှိတော်မူခဲ့၏။ ရဟန်း ၁၀–ဝါအရ သက္ကရာဇ်–၁၂၃၆ (အေဒီ–၁၈၇၄)ခုနှစ်၌ ပထမစာတော်ချဖြစ်တော်မူပါသည်။*[၂]

တောင်သာမြို့ဇာတိ အရှင်အာဒိစ္စ*[၃]သည်ကား သက္ကရာဇ်–၁၂၁၉ (အေဒီ–၁၈၅၇)ခုနှစ်ဖွား ဖြစ်၍ သက်တော်ကိုးနှစ် လူဝတ်နှင့်ပင် စံကျောင်းတိုက်သို့ရောက်၍ စံကျောင်းတိုက်စာချဘုန်းကြီး ချောင်းဆုံအရှင်တေဇဝန္တာဘိဓဇထံ ပညာယူခဲ့၏။ တစ်ဖန် အလုံဦးပဏ္ဍိတထံအပ်နှံခြင်းခံရပြီး သာမဏေဖြစ်တော်မူပါသည်။ သက္ကရာဇ်–၁၂၃၇ (အေဒီ–၁၈၇၅) ခုနှစ် သက်တော် ၁၈–နှစ်၌

*၁ ဤအရှင်ဝိသုဒ္ဓမထေရ်သည် နောင်အခါ တောင်ခွင်သာသနာပိုင်ဟုထင်ရှားသောမထေရ်ကြီးဖြစ်ပါသည်။

*၂ ဦးနာရဒါဘိဝံသ၏ တောင်ခွင်သာသနာပိုင်ဆရာတော်ဘုရားကြီး၏မဟာထေရုပ္ပတ္တိဒီပနီကျမ်း။ မြန်မာ့တာရာသတင်းစာ ပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၃၉–ခုနှစ်။ (စာမျက်နှာ ၁၄–၃၅)။

*၃ ဤအရှင်အာဒိစ္စမထေရ်သည် နောင်အခါ ရွှေရေးဆောင်ဆရာတော်ဦးကြည်ဟု ထင်ရှားသောမထေရ်ကြီးဖြစ်ပါသည်။

# လယ်တီဆရာတော်ကြီး၏ စာသင်ဘက်မိတ်ဆွေများ



မြင်းခြံမြို့မင်းကျောင်းဆရာတော်



ရန်ကုန်မြို့ပထမနော်မန်ကျောင်းဆရာတော်



ပခုက္ကူမြို့သဲပုံစေတီတောရဦးကြည်



မန္တလေးမြို့တောင်ခွင်သာသနာပိုင်

ပဋ္ဌမကျော်အောင်ပန်းကို ဆွတ်လှမ်းရရှိတော်မူပါသည်။ သက္ကရာဇ်-၁၂၃၉ (အေဒီ-၁၈၇၇)ခုနှစ်တွင် စံကျောင်းဆရာတော်ကြီးကိုဥပဇ္ဈာယ်ပြု၍ ရဟန်းဖြစ်တော်မူပါသည်။*၁

မြင်းခြံမြို့ဇာတိ အရှင်ဝိစာရ*၂ သည်ကား သက္ကရာဇ်-၁၂၀၄(အေဒီ-၁၈၄၂)ခုနှစ်ဖွားဖြစ်၍ သက်တော် ၁၄-နှစ်၌ ရှင်သာမဏေပြုတော်မူပါသည်။ သက္ကရာဇ်-၁၂၂၄ (အေဒီ-၁၈၆၂)ခုနှစ်၌ အသက် ၂၀-နှစ်စေ့ရောက်၍ ရဟန်းပြုတော်မူပြီး မန္တလေးမြို့ စံကျောင်းတိုက်သို့ရောက်ရှိကာ ပညာသင်ယူတော်မူခဲ့ပါသည်။*၃

ရမည်းသင်းမြို့ အလည်ကုန်းကျေးရွာဇာတိ အရှင်အာဒိစ္စ*၄သည်ကား သက္ကရာဇ်-၁၂၀၈ (အေဒီ-၁၈၄၆)ခုနှစ်တွင်ဖွားမြင်၍ အရှင်ဉာဏနှင့်သက်တူရွယ်တူဖြစ်လေသည်။ သက္ကရာဇ်-၁၂၁၇(အေဒီ-၁၈၅၅)ခုနှစ် အသက်ကိုးနှစ်တွင် အင်းကုန်းကျောင်းတိုက် ဂိုဏ်းထောက်ဆရာတော်အရှင်သုဒဿနထံရောက်၍၊ သက္ကရာဇ်-၁၂၂၃ (အေဒီ-၁၈၆၁)ခုနှစ်၌ ရှင်သာမဏေဝတ်တော်မူခဲ့၏။ သက္ကရာဇ်-၁၂၂၇ (အေဒီ-၁၈၆၅)ခုနှစ်၌ မန္တလေးမြို့ မင်္ဂလာရာမတိုက် ဒုတိယဆရာတော်ကြီးဦးဝိစိတ္တထံခိုမှီး၍ ပညာသင်ယူတော်မူခဲ့၏။ သက္ကရာဇ်-၁၂၂၈ (အေဒီ-၁၈၆၆)ခုနှစ်၌ ပဋ္ဌမပြန်စာပွဲသဘင်တွင် သဒ္ဒါ,သင်္ဂြိုဟ်မှစ၍ ယမိုက်,ဓာတုကထာ,ပဋ္ဌာန်း အောင်မြင်စွာပြန်ဆိုနိုင်သဖြင့် ပဋ္ဌမကျော်အောင်ပန်းဆွတ်လှမ်းနိုင်ခဲ့ပြီး ထိုနှစ်မှာပင် ရဟန်းအဖြစ်သို့ရောက်တော်မူ၏။ ထို့နောက် စံကျောင်းတိုက်သို့ပြောင်းရွှေ့ကာ စံကျောင်းဆရာတော်ကြီးထံ ပညာသင်ယူ၏။ သက္ကရာဇ်-၁၂၃၅ (အေဒီ-၁၈၇၃)ခုနှစ် ရဟန်းခုနစ်ဝါ၌ ပထမစာတော်ချဖြစ်တော်မူခဲ့၏။*၅

ဒီပဲယင်းမြို့ ပေါင်းထောင်ကူးရွာဇာတိအရှင်ပဏ္ဍိဝ*၆ သည်ကား သက္ကရာဇ်-၁၂၁၄ (အေဒီ-၁၈၅၂)ခုနှစ်ဖွားဖြစ်၍ သက်တော် ၁၅-နှစ်၌ စံကျောင်းဆရာတော်ကြီးထံရောက်ရှိကာ မင်းတုန်း

*၁ ပရိဖက်ဆာဆရာလွန်း၏ မန္တလေးမြို့ ရွှေရေးဆောင်ဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိကထာ။ ဟံသာဝတီပိဋကတ်စာပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၂၉၇-ခုနှစ်။ (စာမျက်နှာ ၁၆-၄၃)။

*၂ ဤအရှင်ဝိစာရမထေရ်သည် နောင်အခါ မြင်းခြံမြို့ အဂ္ဂမဟာပဏ္ဍိတမင်းကျောင်းဆရာတော်ဟုထင်ရှားသောမထေရ်ကြီးဖြစ်ပါသည်။

*၃ မေမြို့မိုးကြည်၏ ဘွဲ့တံဆိပ်တော်ရဆရာတော်ကြီးများထေရုပ္ပတ္တိ။ ဇော်မင်းစာပေ၊ ရန်ကုန်မြို့။ ၁၉၈၀-ပြည့်နှစ်။ (စာမျက်နှာ-၉၁)။

*၄ ဤအရှင်အာဒိစ္စမထေရ်သည် နောင်အခါ အဘိဓမ္မာဆရာကြီးဦးအုန်းဟု ထင်ရှားသောပုဂ္ဂိုလ်ကြီးဖြစ်ပါသည်။ ထိုအရှင်အာဒိစ္စ၏ဥပဇ္ဈာယ် ပြည်ဆရာတော်မှာ ဒုတိယ(မင်္ဂလာရာမ)ပြည်ဆရာတော် ဝိစိတ္တာဘိဇေဓိပတိပဝရမဟာဓမ္မရာဇဂုရုတံဆိပ်တော်ရဦးဝိစိတ္တဖြစ်၏။ ပထမပြည်ဆရာတော်ကြီးဦးမေဓာဝီ ညောင်ကန်ဦးကျိုးမှာ သက္ကရာဇ်-၁၂၂၅ (အေဒီ-၁၈၆၃)ခုနှစ်က ပြန်တော်မူပြီးဖြစ်ပါသည်။

*၅ လှသမိန်၏ ဂန္ထဝင်ပုဂ္ဂိုလ်ကျော်များအတ္ထုပ္ပတ္တိ။ ၁၉၆၁-ခုနှစ်။ (စာမျက်နှာ-၂၅၇)။

*၆ ဤအရှင်ပဏ္ဍိဝမထေရ်သည် နောင်အခါ ပဋ္ဌမကျော်၊ အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ရ၍ မန္တလေးမြို့အနောက်ပြင်ချမ်းသာကြီးဆရာတော်အရှင်ပဏ္ဍိဝ၊ မင်းကွန်းတောင်ရိုး ဝေယန်ဘုံမြင့်ချောင် ချမ်းသာကြီးဆရာတော်ဟု ထင်ရှားသောမထေရ်ကြီးဖြစ်ပါသည်။

# လယ်တီဆရာတော်ကြီး၏ စာသင်ဘက်မိတ်ဆွေများ



မန္တလေးမြို့ရွှေရေးဆောင်ဆရာတော်ဦးကြည်



ညောင်လေးပင်မြို့ပထမတောရဆရာတော်



မန္တလေးမြို့ပထမငွေတောင်ဆရာတော်



မန္တလေးမြို့ချမ်းသာကြီးဆရာတော်

မင်းကြီးက ရှင်ဒါယကာအဖြစ်ခံယူ၍ ရှင်သာမဏေပြုပေးခဲ့ပါသည်။ အသက် ၁၆–နှစ်၌ ပဋ္ဌမပြန်စာပွဲသဘင်သို့ဝင်ရောက်ဖြေဆိုရာ ပဋ္ဌမရှင်ကျော်ဘွဲ့ကိုရရှိသည်။ အသက်–၂၀ ၌ ပထမပြန်စာပွဲတွင်ဝင်ရောက်ပြန်ရာ ပဋ္ဌမကျော်ဘွဲ့ကိုရရှိခဲ့သည်။ စကြာဒေဝီမိဖုရားကြီး၏ပစ္စယာနုဂ္ဂဟဖြင့် စံကျောင်းဆရာတော်ကြီးကိုဥပဇ္ဈာယ်ပြု၍ သုဓမ္မာသိမ်တော်တွင် ရဟန်းအဖြစ်ရောက်တော်မူပါသည်။ ရဟန်းရှစ်ဝါအရတွင် ပထမစာတော်ချဖြစ်တော်မူခဲ့ပါသည်။ အရှင်ပဏ္ဍဝသည် မကုဋာရာမဆရာတော်အရှင်ခေမိန္ဒ၏တပည့်ရင်းဖြစ်၍ ဦးခေမိန္ဒထံတွင် လယ်တီဆရာတော်ကြီးလောင်းလျာအရှင်ဉာဏနှင့်အတူစာလိုက်ကြကာ အလွန်ရင်းနှီးသောစာသင်ဖက်ဖြစ်တော်မူကြပါသည်။*၁

စစ်ကိုင်းမြို့ စာရေးရွာဇာတိ အရှင်ဇဝန*၂ သည်ကား သက္ကရာဇ်–၁၂၁၆(အေဒီ–၁၈၅၄) ခုနှစ်၌ဖွားတော်မူ၏။ အသက်ခုနစ်နှစ်အရွယ်ကပင် စစ်ကိုင်းမြို့ ရတနာထွန့်ခေါင်ဆရာတော်ကြီးထံ ဘိုးသူတော်ဝတ်ဖြင့် စတင်ပညာသင်ယူခဲ့ပြီး၊ နောင် ရှင်သာမဏေဝတ်ခဲ့၏။ အသက်–၂၀ ပြည့်လျှင် မန္တလေးမြို့ အနောက်ပြင် စကုဆရာတော်ကြီးကိုဥပဇ္ဈာယ်ပြု၍ ရဟန်းဖြစ်တော်မူပြီး ခင်မကန်ဆရာတော်၊ စလင်းဆရာတော်၊ အကောက်ဝန်ဆရာတော်နှင့် စံကျောင်းဆရာတော်တို့ထံ ပညာသင်ယူဆည်းပူးတော်မူ၏။*၃

ညောင်ဦးမြို့ဇာတိ အရှင်ကိတ္တိ*၄သည်ကား သက္ကရာဇ်–၁၂၀၄ (အေဒီ–၁၈၄၂)ခုနှစ်၌ ဖွားတော်မူပြီး၊ အသက် ၁၂–နှစ်အရွယ် ပုထိုးကုဏ်းထောက်ဦးသုမနထံ၌ ပညာသင်ယူခဲ့သည်။ အသက် ၁၅–နှစ်အရွယ်တွင် ရှင်သာမဏေဝတ်ခဲ့သည်။ ဘွဲ့တော်မှာ ရှင်ကိတ္တိဖြစ်သည်။ သက္ကရာဇ်–၁၂၂၄(အေဒီ–၁၈၆၂)ခုနှစ် သက်တော်–၂၀ ပြည့်ချိန်တွင် ငယ်ဆရာဦးသုမနကိုပင် ဥပဇ္ဈာယ်ပြု၍ ပုထိုးတိုက်သိမ်၌ ရဟန်းအဖြစ်ရောက်တော်မူ၏။ ရဟန်းသုံးဝါအရ သက္ကရာဇ်–၁၂၂၇(အေဒီ–၁၈၆၅)ခုနှစ်၌ ဦးသုမန၏စေလွှတ်ချက်အရ စံကျောင်းတိုက်သို့ရောက်တော်မူပြီး စံကျောင်းဆရာတော်ကြီးဦးသုဒဿနထံတော်တွင် ပညာသင်ယူခဲ့ပါသည်။ အရှင်ကိတ္တိသည် အရှင်ဉာဏနှင့်အတူ ခြောက်ဝါခန့် ပိဋကတ်စာပေများကို သင်ယူတော်မူခဲ့ပါသည်။*၅

---

*၁ အရှင်ကေလာသ၏စစ်ကိုင်းသာသနာဝင်။ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ–၃၁၄)။ ထို့ပြင် မင်းကွန်းတောင်ရိုးမှာပင် ရတနာဘုံမြင့်ချောင်ကိုလည်း တည်ထောင်တော်မူပါသည်။ စစ်ကိုင်းသူရ၏ သမိုင်းဝင်မင်းကွန်း။ မြင့်မာလာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၉၀–ပြည့်နှစ်။ (စာမျက်နှာ–၁၃၂)။

*၂ ဤအရှင်ဇဝနမထေရ်သည် နောင်အခါ မန္တလေးမြို့အနောက်ပြင် ပဋ္ဌမဈေးအင်ပင်ဆရာတော်ဟု ထင်ရှားသောဆရာတော်ကြီးဖြစ်ပါသည်။

*၃ အရှင်ကေလာသ၏ စစ်ကိုင်းသာသနာဝင်။ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ–၁၆၃)။

*၄ ဤအရှင်ကိတ္တိသည် နောင်အခါ ပခုက္ကူ မြစ်ကိုင်းရွာမြောက်ဘက်၌ သဲပုံစေတီတောရဆရာတော်ဦးကြည်ဟု ထင်ရှားကျော်ကြားသော မထေရ်ကြီးဖြစ်ပါသည်။

*၅ အရှင်ကေလာသ၏ ပခုက္ကူသာသနာဝင်။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၁၀၆)။

မကွေးမြို့ဇာတိ အရှင်မုနိန္ဒ*[၁] ကား အရှင်ဉာဏထက်သက်ရွယ်အားဖြင့်ကြီးမားပြီး စလင်းဆရာတော်ဦးပဏ္ဍိစ္စ၏အခန်းနေတပည့်ရင်းတစ်ပါးဖြစ်သည်။ အရှင်ဉာဏနှင့် ဆရာတူတပည့်အဖြစ် အလွန်ချစ်ကျွမ်းဝင်သော စာသင်ဖက်မိတ်ဆွေဖြစ်ပါသည်။*[၂]

ရွှေဘိုမြို့နယ် မုံလှရွာဇာတိ အရှင်သောမ*[၃] သည်ကား သက္ကရာဇ်–၁၂၁၁(အေဒီ–၁၈၄၉) ခုနှစ်ဖွားတော်မူ၍ စစ်ကိုင်းတောင်ရိုး ကျေးတောင်ဦးတောရဆရာတော်ထံ ကျောင်းသားအဖြစ် ပညာသင်ယူခဲ့၏။ ထိုမှ ဆင်ဖြူကျွန်း, ပြည်မြို့, ရန်ကုန်မြို့တို့၌ ဆက်လက်ပညာသင်ယူတော်မူပြီး မန္တလေးမြို့စံကျောင်းတိုက်သို့ရောက်ရှိ၍ အရှင်ဉာဏနှင့်အတူ စံကျောင်းဆရာတော်ကြီးထံတော်တွင် စာသင်ဖက်မိတ်ဆွေများဖြစ်တော်မူခဲ့ပါသည်။*[၄]

မြင်းခြံခရိုင် တလုတ်မြို့နယ် ကန်တော်ရွာဇာတိ ဦးအာစာရ*[၅] သည် သက္ကရာဇ်–၁၂၀၂ (အေဒီ–၁၈၄၀)ခုနှစ်၌ဖွားတော်မူ၍ စံကျောင်းဆရာတော်ဦးသုဒဿနထံရောက်ရှိပညာသင်ယူခဲ့ရာ အရှင်ဉာဏနှင့် စာသင်ဖက်မိတ်ဆွေကြီးတစ်ဦး ဖြစ်တော်မူလေသည်။*[6]

တောင်တွင်းကြီးမြို့နယ် မြို့လုင်ရွာဇာတိ အရှင်သုမန*[၇] သည် တောင်တွင်းအကျော်ခင်ကြီးဖျော်နှင့်မြေးတော်စပ်၍ သက္ကရာဇ်–၁၁၉၅(အေဒီ–၁၈၃၃)ခုနှစ်ဖွားဖြစ်ပါသည်။ တောင်တွင်းကြီးမြို့အရှေ့မြောက် ဒါန်ဒလွန်ပင်ရွာအရှေ့ မဟာဝိသုတာရာမလေသာတိုက်ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘောင်သို့ရောက်တော်မူသည်။ မင်းကွန်း,အမရပူရမြို့တို့၌ ပညာသင်ယူပြီးမှ မန္တလေးမြို့မြောက်ပြင် စံကျောင်းတိုက်သို့ရောက်ကာ ဆရာတော်ဦးသုဒဿနထံ ပညာသင်ယူခဲ့ပါသည်။*[၈]

---

*၁ ဤအရှင်မုနိန္ဒသည် နောင်အခါ မကွေးမြို့ လေးထပ်ကျောင်းဆရာတော် ဦးမုနိန္ဒဟု ထင်ရှားတော်မူခဲ့ပါသည်။

*၂ လယ်တီဆရာတော်ဘုရားကြီးသည် နှစ်စဉ် မကွေးမြို့လေးထပ်ကျောင်းသို့ကြွတော်မူပြီး စလင်းဆရာတော်ဦးပဏ္ဍိစ္စအား ကန်တော့လေ့ရှိရာ၊ ထိုလေးထပ်ကျောင်းမှာပင်သီတင်းသုံး၍နေသော အရှင်မုနိန္ဒထံသို့ဝင်ရောက်၍ မိတ်ဆွေနှစ်ပါးတို့ ဖက်လှဲတကင်းအကျွမ်းတဝင်ရှိကြကြောင်းနှင့် မန္တလေးမြို့စံကျောင်းတိုက်မှာ စာသင်ဖက်များဖြစ်ကြောင်းတို့ကို မကွေးမြို့ လေးထပ်ကျောင်း၌ ကိုရင်အဖြစ်နေထိုင်ခဲ့ဖူးသူ ကဗျာဆရာကြီးသျှင်သန်းမေ–ဦးဘသန်း(၁၄–၃–၈၆)နေ့က ပြောပြခဲ့ပါသည်။

*၃ ဤအရှင်သောမသည် နောင်သောအခါ ဘုန်းတော်ကြီးဦးသီလနှင့်တွေ့၍ ညောင်လေးပင်မြို့ ညောင်လေးပင်တောရတိုက်ကျောင်းကြီးကိုတည်ထောင်သော ပဌမညောင်လေးပင်တောရကျောင်းဆရာတော်ဖြစ်တော်မူပါသည်။

*၄ ဦးအရိယမထေရ်မြတ်၏ ဘုန်းတော်ကြီးဦးသီလထေရုပ္ပတ္တိ။ ဝင်းမော်ဦးစာပေ၊ ရန်ကုန်မြို့။ ၁၉၇၄–ခုနှစ်။ (စာမျက်နှာ–၁၃၇)။

*၅ ဤအရှင်အာစာရသည် နောင်အခါ ရွှေကျင်ဆရာတော်ကြီး၏ ဩဝါဒကိုခံယူ၍ လေးတန်းရွာ အဘယာရုံတိုက်ကို တည်ထောင်သဖြင့် လေးတန်းဆရာတော်အရှင်အာစာရဟု ထင်ရှားကျော်ကြားတော်မူပါသည်။

*6 အရှင်ကေလာသ၏ မန္တလေးသာသနာဝင်၊ အတွဲ–၂၁။ မဟာဇောတိကာရာမသာသနာဝင်။ (လက်နှိပ်စက်မူ)။

*၇ ဤအရှင်သုမနသည် နောင်အခါ ပဌမတောင်တွင်းဆရာတော်ဟုလည်းကောင်း၊ တောင်တွင်းမြို့ သုမင်္ဂလာစရိယဂိုဏ်းထောက် ဆရာတော်ဦးသုမနဟုလည်းကောင်း ထင်ရှားကျော်ကြားတော်မူပါသည်။

*၈ တောင်တွင်းလှဖေ၏ တောင်တွင်းကြီးရုပ်လုံးဖော်ဦးကာအဖွင့်။ စာဆိုတော်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၇–ခုနှစ်။ (စာမျက်နှာ–၄၇)။ လှသမိန်၏ ဂန္ထဝင်ပုဂ္ဂိုလ်ကျော်များ။ ၁၉၆၁–ခုနှစ်။ (စာမျက်နှာ–၁၁၄)။



မန္တလေးမြို့ပထမရွှေအင်ပင်ဆရာတော်



အမရပူရမြို့အဘိဓမ္မာဆရာကြီးဦးအုန်း

လယ်တီဆရာတော်ကြီးလောင်းလျာအရှင်ဉာဏ
ကထာဝတ္ထုပါဠိတော်ကိုအာဂုံပြန်ဆိုတော်မူခဲ့ရာမြေနန်းပြာသာဒ်တော်ကြီး

ပခုက္ကူခရိုင် မြိုင်မြို့နယ် ဝါးတန်းရွာဇာတိ အရှင်ပညာ[*၁] သည် ၁၂၀၀-ပြည့်နှစ် (အေဒီ-၁၈၃၈)ခုနှစ်၌ဖွားတော်မူ၍ ကျောက်ဆောက်ရွာ ရွှေကျောင်းဆရာတော်ထံ စတင်ပညာသင်ယူ၍ ရဟန်းဘောင်သို့ရောက်တော်မူပြီးသော် စံကျောင်းဆရာတော်ဦးသုဒဿနထံ ရောက်ရှိကာ ဋီကာကျော်စသော အဘိဓမ္မာကျမ်းစာများကို သင်ယူတော်မူခဲ့၏။ ရဟန်းပျိုဘဝနှင့် မင်းတုန်းမင်းလက်ထက်အခါ မြေနန်းတော်၌ကျင်းပသော တိပိဋကစာတော်ပြန်ပွဲတွင် သစ္စဝိဘင်းပါဠိတော်ကို ပြန်ဆိုအောင်မြင်တော်မူခဲ့၏။ ပထမစာတော်ချလည်းဖြစ်တော်မူသည်။[*၂]

မန္တလေးမြို့အနောက်ဘက် အာလောင်ကျွန်းဇာတိ အရှင်ပဏ္ဍဝံသ[*၃] သည် သက္ကရာဇ်-၁၂၀၅(အေဒီ-၁၈၄၃)ခုနှစ်ဖွားဖြစ်၍ ၁၆-နှစ်အရွယ်၌ သာမဏေအဖြစ် သင်္ဂဇာဆရာတော်ကြီးထံ စတင်ပညာသင်ယူခဲ့သည်။ ရဟန်းပြုတော်မူပြီးသော် မဟာဗိုလ်ဆရာတော်၊ မြို့ပြင်ကြီးဂိုဏ်းအုပ်ဆရာတော်၊ ရွှေကျင်ဆရာတော်၊ စလင်းဆရာတော်နှင့် စံကျောင်းဆရာတော်ဦးသုဒဿနအစရှိသော ဆရာတော်ဘုရားကြီးများထံတော်သို့ ပညာသင်ရောက်ရှိတော်မူကာ စံကျောင်းတိုက်တွင် လယ်တီဆရာတော်ကြီးလောင်းလျာ အရှင်ဉာဏနှင့်စာသင်ဖက်ဖြစ်တော်မူပါသည်။[*၄]

ရမည်းသင်းခရိုင် အုပ်ရှစ်ကုန်းရွာဇာတိအရှင်နန္ဒိယ[*၅] သည် သက္ကရာဇ်-၁၂၀၆ (အေဒီ-၁၈၄၄)ခုနှစ်၌ဖွား၍ ရမည်းသင်းမြို့ ရန်အောင်သုံးဂိုဏ်းချုပ်ဆရာတော်ဦးသီရိထံ ရှင်သာမဏေဖြစ်တော်မူပါသည်။ ထိုမှ မန္တလေးမြို့စံကျောင်းတိုက်သို့ရောက်ရှိကာ ပညာသင်ယူခဲ့ပြီး စိန်တုံးမိဖုရားကြီးက နောင်အခါ ဝဇီရာရာမဆရာတော်ဟု ထင်ရှားလာမည့် အရှင်ပညာသီရိနှင့်အတူ ရဟန်းခံပေးခဲ့ပါသည်။ အရှင်နန္ဒိယသည် ပရိယတ်စာပေ၌ ထူးချွန်သောပုဂ္ဂိုလ်ဖြစ်သည့်အတိုင်း ပထမစာချ ဆင်စွယ်တံဆိပ်ရပုဂ္ဂိုလ်အဖြစ် ရောက်ရှိတော်မူခဲ့ပါသည်။ [*၆]

---

*၁ ဤအရှင်ပညာသည် နောင်အခါ ဒလမြို့အနီး ညောင်ပင်သာရွာ၌ 'အဘိဓမ္မတ္ထဂန္ဓိသာရရှုဖွယ်' ခေါ် သင်္ဂြိုဟ်အကောက်စကားပြောပုံကျမ်းပြု စကြာဒေဝီမိဖုရားကြီးကိုးကွယ်သော နန်းမတော်စာချ ပညာရုံသီတိသာသနာဓဇသီရိပဝရဘွဲ့တံဆိပ်ရ ဆရာတော်ဦးပညာဟု ထင်ရှားတော်မူပါသည်။

*၂ အရှင်ပညာရုံသီ၏ သင်္ဂြိုဟ်အကောက်စကားပြောပုံကျမ်း။ သာသနာ့ဟိတပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၉၀-ပြည့်နှစ်။ (စာမျက်နှာ-၁၆၈)။

*၃ ဤအရှင်ပဏ္ဍဝံသသည် နောင်အခါ ဓာတုမဉ္ဇူသာ၊ ဆန်းဋီကာ၊ ဓာတွတ္ထဒီပနီဋီကာ၊ ပညတ်နက်ကျမ်း၊ ပဥ္စတ္တာလီသပုစ္ဆာကျမ်း၊ သတပဒီကပုစ္ဆာဝိသဇ္ဇနာကျမ်းစသောကျမ်းဂန်များပြုစုတော်မူ၍ 'ပဏ္ဍဝံသာဘိလင်္ကာရကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု'ဘွဲ့တံဆိပ်တော်ကိုဆက်ကပ်လှူဒါန်းခံရပြီးလျှင် မြတောင်ကျောင်းတိုက် အကောက်ဝန်မင်းကျောင်း၌ စာချနေသဖြင့် မြတောင်ဆရာတော်၊ နောင် မင်းကွန်းဥဒုမ္ဗရချောင်၌သီတင်းသုံးတော်မူပြန်ပါသဖြင့် မင်းကွန်းဥဒုမ္ဗရချောင်ဆရာတော်ဟု ထင်ရှားတော်မူခဲ့ပါသည်။

*၄ အရှင်ကေလာသ၏ စစ်ကိုင်းသာသနာဝင်။ ၁၉၇၉-ခုနှစ်။ (စာမျက်နှာ-၂၇၆)။

*၅ ဤအရှင်နန္ဒိယသည် နောင်အခါ ရမည်းသင်းမြို့ ရွှေစောလူးဆရာတော်အရှင်နန္ဒိယဟုထင်ရှားကျော်ကြားခဲ့ပါသည်။

*၆ ဆင်ကျုံးတောရဆရာတော်၏ ရမည်းသင်းခရိုင်သာသနာဝင်သမိုင်း။ ၁၉၉၆-ခုနှစ်။ (စာမျက်နှာ-၅၁၊ ၅၂၊ ၅၃)။

စစ်ကိုင်းမြို့ တင်းတိပ်ရွာဇာတိအရှင်ပဒုမ*[၁] သည် သက္ကရာဇ်–၁၂၀၅(အေဒီ–၁၈၄၃)ခုနှစ်၌ဖွားချေ၍ သက္ကရာဇ်–၁၂၂၅(အေဒီ–၁၈၆၃)ခုနှစ်တွင်ရဟန်းဖြစ်တော်မူပြီး စံကျောင်းတိုက်သို့ရောက်ရှိခဲ့ပါသည်။*[၂]

ပင်းမြို့ဇာတိ အရှင်ပဏ္ဍိစ္စ*[၃] သည် သက္ကရာဇ်–၁၂၀၆(အေဒီ–၁၈၄၄)ခုနှစ်၌ဖွားချေ၍ ငယ်စဉ်ကပင် မန္တလေးမြို့ ပြည်ဆရာတော်ဘုရားကြီးထံရောက်ရှိခဲ့ကာ၊ သက္ကရာဇ်–၁၂၁၇ (အေဒီ–၁၈၅၅)ခုနှစ်၌သာမဏေဝတ်ခဲ့၏။ သက္ကရာဇ်–၁၂၂၇(အေဒီ–၁၈၆၅)ခုနှစ်၌ ရဟန်းအဖြစ်ရောက်ရှိကာ စံကျောင်းတိုက်သို့ရောက်ရှိခဲ့ပါသည်။*[၄]

ရမည်းသင်းမြို့ အုန်းပင်ရပ်ဇာတိအရှင်ဉာဏ*[၅] သည် သက္ကရာဇ်–၁၂၀၄(အေဒီ–၁၈၄၂)ခုနှစ်၌ဖွားချေ၍ မန္တလေးမြို့ မိုးထိတိုက်နှင့် ဘုရားကြီးတိုက်တို့တွင် ရှေးဦးစွာပညာသင်ယူခဲ့ပါသည်။ ထို့နောက် စံကျောင်းတိုက်သို့ရောက်ပြီး နောင်သောအခါ ပဥ္စမသံဂါယနာတင်ပွဲကြီး၌ သံယုတ္တနိကာယ်ပါဠိတော်ကြီးကို နှုတ်လွတ်အာဂုံပြန်ဆိုကြရန်အတွက် လယ်တီဆရာတော်ကြီးလောင်းလျာ အရှင်ဉာဏနှင့်အတူ ကျက်မှတ်ခဲ့ကြဖူး၏။*[6]

ညောင်ရမ်းမြို့အပိုင် ကန်ဖြူရွာကြီးဇာတိ အရှင်ကဝိန္ဒ*[၇]သည် သက္ကရာဇ်–၁၂၁၄(အေဒီ–၁၈၅၂)ခုနှစ်၌ဖွားချေ၍ အသက် ၁၂–နှစ် သာမဏေအရွယ်တွင် မန္တလေးမြို့ဘုရားကြီးတိုက်သို့ရောက်ရှိကာ ပညာသင်ယူခဲ့၏။ သက္ကရာဇ်–၁၂၃၃(အေဒီ–၁၈၇၁)ခုနှစ်၌ ရဟန်းဖြစ်တော်မူပြီး သက္ကရာဇ်–၁၂၃၈(အေဒီ–၁၈၇၆)ခုနှစ်၌ ရဟန်းလေးဝါအရတွင် စံကျောင်းဆရာတော်ကြီး ဦးသုဒဿန၏ခြေတော်ရင်းသို့ရောက်ရှိ၍ အရှင်ဉာဏနှင့်အတူ စာသင်ဖက်ဖြစ်တော်မူပါသည်။*[၈]

---

*၁ ဤအရှင်ပဒုမသည် နောင်အခါ စစ်ကိုင်းမြို့ မန်ကျည်းဇင်ရွာမြောက် ဥတ္တမရာမ်ကန်တော်ကြီးအတွင်း ကိုးဂိုဏ်းချုပ် အိမ်ဖြူတောရဆရာတော်ကြီးဟု ထင်ရှားကျော်ကြားခဲ့ပါသည်။

*၂ ကိုးဂိုဏ်းချုပ် အိမ်ဖြူဆရာတော်ဘုရားကြီး။ သူရိယမဂ္ဂဇင်း၊ အတွဲ–၁၃။ အမှတ်–၁၂။ ၁၉၃၀–ပြည့်နှစ်၊ ဖေဖော်ဝါရီလ။ (စာမျက်နှာ–၇၄)။

*၃ ဤအရှင်ပဏ္ဍိစ္စသည် နောင်အခါ ပန်းတနော်မြို့ ယွန်းကျောင်းဆရာတော်ကြီးဟုထင်ရှားခဲ့ပါသည်။ ယွန်းကျောင်းဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၇၇–ခုနှစ်(အေဒီ–၁၉၁၅)၌ပြန်လွန်တော်မူပြီး တစ်ဖန်လူဝင်စားဖြစ်ကာ ပိဋကမောင်ထွန်းကြိုင်ဟူသောအမည်ဖြင့် ထင်ရှားခဲ့ပြန်ပါသည်။

*၄ မဟာကထိကမောင်ထွန်းကြိုင်၏ သုံးဘဝကူးအတ္ထုပ္ပတ္တိစာတမ်း။ ချစ်စရာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ?–ခုနှစ်။ (စာမျက် နှာ–၂)။

*၅ ဤအရှင်ဉာဏသည် နောင်အခါ ရမည်းသင်းခရိုင် ရွှေကူဂိုဏ်းအုပ်ဒေါင်ကျောင်းဆရာတော် အရှင်ဉာဏဟု ထင်ရှားကျော်ကြားခဲ့ပါသည်။

*6 ဆင်ကျုံးတောရဆရာတော်၏ ရမည်းသင်းခရိုင်သာသနာဝင်သမိုင်း။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ–၇၉)။

*၇ ဤအရှင်ကဝိန္ဒသည် နောင်အခါ မန္တလေးမြို့ ပထမငွေတောင်ဆရာတော်ဘုရားကြီးဟုထင်ရှားကျော်ကြားခဲ့ပါသည်။

*၈ ဦးလှန္တာစာရာဘိဝံသ၏ သာသနာ့လင်္ကာရဆရာတော်ဘုရားကြီး၏ဖြစ်တော်စဉ်ထေရုပ္ပတ္တိကထာ။ ဘီအီးတီစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၁၅–ခုနှစ်။ (စာမျက်နှာ ၁၉–၂၁)။

စလင်းမြို့ဇာတိ အရှင်ကောဏ္ဍည*[၁]သည် စလင်းဆရာတော်ဦးပဏ္ဍိစ္စ၏တပည့်ရင်းဖြစ်ပြီး စံကျောင်းတိုက်၌ အရှင်ဉာဏနှင့်အတူပညာသင်ယူခဲ့ပါသည်။

ပန်းတင်ကျောင်းဘုန်းကြီးဦးနာဂသည်ကား စံကျောင်းတိုက်အတွင်းရှိ ပန်းတင်ကျောင်းဘုန်းကြီးဖြစ်၍ အရှင်ဉာဏနှင့်အထူးရင်းနှီးသောမိတ်ဆွေဖြစ်သည်။ ဘုန်းကြီးဦးနာဂနှင့် အရှင်ဉာဏတို့သည် ပါဠိဘာသာဖြင့် သန္ဒေသကထာအပြန်အလှန်ရေးသားကာ ပါဠိစာအရေးအသားတိုးတက်အောင်လေ့ကျင့်ဖူးကြ၏။ အရှင်ဉာဏ၏ စာပေပရိယတ်လေ့လာရေးလုပ်ငန်းတွင် ဦးနာဂသည် များစွာအကူအညီပေးခဲ့၏။*[၂]

**ဝံသစင်ကြယ် ငါတို့နွယ်**

လယ်တီဆရာတော်ကြီးလောင်းလျာအရှင်ဉာဏ မန္တလေးမြို့စံကျောင်းတိုက်ကြီးအတွင်း စာသင်နေစဉ်အခါက အတူသီတင်းသုံးဖော်သံဃာသာမဂ္ဂီတို့၏အကြောင်းကို အကျဉ်းမျှစီဖော်ပြပြီးသည့်နောက် ထိုအရှင်ဉာဏ၏ဆရာအစဉ်အဆက်(အာစရိယပရမ္ပရ)ကိုလည်း သိမှတ်နိုင်စေရန် ဆက်လက်ဖော်ပြလိုပေသည်။

စံကျောင်းတိုက်အတွင်း အရှင်ဉာဏနှင့်အတူစာသင်ဖက်ဖြစ်သောအရှင်အာဒိစ္စဝံသ(နောင်ရွှေရေးဆောင်ဆရာတော်ကြီးဦးကြည်)သည် သဒ္ဒါဆိုင်ရာနိယံလင်္ကာ ကဗျာပေါင်း ၆၅၁-ပုဒ်ကိုပြုစုရေးသားတော်မူခဲ့ပါသည်။ ထိုနိယံတို့ကို စံကျောင်းနိယံ(သို့မဟုတ်)ဂမ္ဘီရဗ္ဗာနိယာမကျမ်း(ရွှေရေးဆောင်နိယံ)ဟုလည်းခေါ်ပါသည်။ ထိုစံကျောင်းနိယံကျမ်း၏နိဂုံး၌ အရှင်အာဒိစ္စဝံသက မိမိ၏ဆရာသမားအစဉ်အဆက်ကို 'စန်,ဉာ,ဂု,နန်၊ ဆင့်ရန်တထွေ၊ သူ-ရေ-သု-ပဏ်၊ ရှစ်တန်ထေရ်မော်၊ ကျွန်းလုံးကျော်တို့၊ ရှေ့သော်ဆရာ၊ နောက်မှာသီသ၊ ဆင့်ဆင့်ပြလော့၊ ဝံသစင်ကြယ်၊ ငါတို့နွယ်တည်း'ဟု လင်္ကာဖွဲ့သိမှတ်တမ်းတင်တော်မူခဲ့လေသည်။

ထိုလင်္ကာပါ ဆရာတော်ကြီးရှစ်ပါးတို့သည်-

၁။ 'စန်' = စန္ဒမဥ္ဇူသာလင်္ကာရ တိပိဋကရေမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ရဦးစန္ဒမဥ္ဇူသာဆရာတော်ကြီး*[၃] (အေဒီ ၁၆၈၇-၁၇၂၃)။ ဆရာတော်အရှင်စန္ဒမဥ္ဇူသာသည် ပုခန်းကြီးနယ် နောင်းဘစ္စာဖွားတော်မူ၍ နောင်းဘစ္စာ နိဗ္ဗာန်ကျောင်းဆရာတော်

---

*[၁] ဤအရှင်ကောဏ္ဍညသည် နောင်အခါ စလင်းမြို့ မဟာသုဇနာရာမဆရာတော်ဟု ထင်ရှားတော်မူခဲ့ပါသည်။

*[၂] ဤပန်းတင်ကျောင်းဘုန်းကြီးဦးနာဂသည် နောင်အခါ စစ်ကိုင်းမြို့ကောင်းမှုတော်ဘုရားအနီး ဝိနည်းမိုရ်ကျောင်းဆရာတော်ဟုထင်ရှား၏။ အရှင်နာဂသည် လယ်တီဆရာတော်ဘုရားကြီး စံကျောင်းတိုက်၌ သီတင်းသုံးတော်မူစဉ်က ရေးသားခဲ့သော ဝိသတိပုစ္ဆာဝိဿဇ္ဇနာ ခေါ် ပါရမီဒီပနီပေမူကိုသိမ်းဆည်းထားခဲ့ပြီး နောင်အခါထုတ်ဖော်ပေးခဲ့သောပုဂ္ဂိုလ်ဖြစ်ပါသည်။ လယ်တီဦးလှပိုင်၏လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ-၆၈)။

*[၃] ဆရာတော်ဦးစန္ဒမဥ္ဇူသာကို ဦးစန္ဒိမာ၏ ရွှေရေးဆောင်ခေတ်သုံးခေတ်စာပေကျမ်း။ ၁၃၃၆-ခုနှစ်။ (စာမျက်နှာ-၇၇)၌ 'ဘုံသာဆရာတော်'ဟုလည်းကောင်း၊ လယ်တီဦးလှပိုင်၏ပုခန်းသာသနာဝင်ကျမ်း။ ၁၉၈၁-ခုနှစ်။ (စာမျက်နှာ-၁၃၅)၌ 'ပုခန်းကြီးတောင်လက် ပုဘစ္စာ(ဘုန့်ပါစ္စာ)ဇာတိ ပုဘဆရာတော်'ဟုလည်းကောင်း ပြဆိုထား၏။

အရှင်ဓမ္မနန္ဒာလင်္ကာရထံမှ ပိဋကတ်ကျမ်းဂန်စာပေတို့ကို သင်ယူတော်မူခဲ့သည်။ ဆရာတော်သည် နက္ခတ်ဗေဒင်နှင့် ကဗျာလင်္ကာတို့တွင်လည်း လိမ္မာကျွမ်းကျင်တော်မူသည်။ အင်းဝခေတ် တနင်္ဂနွေမင်းလက်ထက်၌ မင်းပေးတံဆိပ်ကို အလှူခံရရှိတော်မူပါသည်။ သက်တော် ၃၆–နှစ်၊ ဝါတော် ၁၇–ဝါမျှတွင် နတ်ပွဲဝင်တော်မူခဲ့ပါသည်။*[၁]

၂။ 'ဉာ' = ဉာဏာသာဂရကိတ္တိဓဇယဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ရ ပထမကျော်အောင်စံထားဆရာတော်အရှင်ဉာဏဝ(အေဒီ ၁၇၀၅–၁၇၅၃)။ ဆရာတော်အရှင်ဉာဏဝရသည် ပုခန်းကြီး၊ မြိုင်မြို့နယ် ပိုက်သင်ရွာ၌ဖွားတော်မူ၍ ခြောက်နှစ်သားအရွယ်တွင် နှောင်းဘရွာ နိဗ္ဗာန်ကျောင်းဆရာတော်၏တပည့် အရှင်စန္ဒမဥ္ဇူသာထံ မိဘများအပ်နှံခဲ့၏။ ထိုအရှင်ထံမှာပင်ပညာသင်၍ ရှင်သာမဏေဝတ်သော် ရှင်ဘွဲ့မှာ ရှင်ဉာဏဝရမည်၏။ ငယ်စဉ်ကပင်ထင်ရှားခဲ့၏။ သက္ကရာဇ်–၁၀၈၅(အေဒီ–၁၇၂၃)ခုနှစ် ဆရာရင်းအရှင်စန္ဒမဥ္ဇူသာ ဘဝပြောင်းသော် အင်းဝမြို့တော် အောင်မြေစံလွှတ်မိုးထိဆရာတော်ထံ တပည့်ခံပြန်၍ ၁၉–နှစ်အရွယ်၌ ပထမစာတော်ပြန်ပွဲ ဝင်ရောက်ဆင်နွှဲရာ ပထမကျော်အောင်ပန်းဆွတ်လှမ်းခဲ့၏။ ထို့နောက် ပုခန်းစည်သူရှင်ဘုရားအနောက် မတောင့်တကျောင်း၌ သီတင်းသုံးနေတော်မူပြီး ကျမ်းဂန်စာပေများစွာကိုပြုစုတော်မူခဲ့၏။ ဟံသာဝတီရောက်မင်းလှူဒါန်းသော ကျောင်းရံပေါင်းတစ်ရာကျော်ပါရှိသော ကျော်အောင်စံထားကျောင်းကြီးကိုအလှူခံရရှိတော်မူသည်မှစ၍ ကျော်အောင်စံထားဆရာတော်ဟု ထင်ရှားခဲ့သည်။ သက္ကရာဇ်–၁၁၁၅ (အေဒီ–၁၇၅၃)ခုနှစ်၊ သက်တော်အလွန်နုနယ်သော ၄၈–နှစ်အရွယ်၌ဘဝပြောင်းတော်မူပါသည်။*[၂]

၃။ 'ဂု' = ဂုဏာဘိအနန္တဓဇမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်၊ ဂုဏာဘိအနန္တ သိရီသဒ္ဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရုဟူသော တံဆိပ်တော်နှစ်ထပ်ရ မင်းအိုဆရာတော်အရှင်ဂုဏာဘိခေါ် အရှင်ဂုဏာလင်္ကာရ (အေဒီ ၁၇၀၈–၁၇၉၁)သည် ပုခန်းကြီးနယ်ဖက်တောကျေးကန်ရွာဇာတိဖြစ်၏။ မင်းအိုကျောင်းတိုက်ကိုအလှူခံရ၍ မင်းအိုဆရာတော်ဟု ထင်ရှားခဲ့၏။ သီလဝိသောဓနီကျမ်း၌ 'ကျမ်းရိုးဆို သူမတန်အောင်ကောင်းလှသည်'ဟု မင်းအိုဆရာတော်၏ဂုဏ်ကိုဖော်ပြထား၏။*[၃] ဆရာဖြစ်သော ကျော်အောင်စံထားဆရာတော်နှင့်အတူ ညောင်ကန်ရွာသို့လိုက်ပါလာခဲ့ပြီး ညောင်ကန်ရွာ၌ ၂၈–နှစ်တိုင်စာပေပို့ချတော်မူခဲ့၏။ စဥ့်ကူးမင်းက အင်းဝသို့ပင့်၍ကိုးကွယ်ခဲ့၏။ ဘိုးတော်မင်းလက်ထက်၌ သာသနာပိုင်လေးပါးခန့်ရာတွင် မင်းအိုဆရာတော်သည်

---

၁ ပခန်းကျော်၏ ပခန်းကြီးအကြောင်းသိကောင်းစရာများ။ ၁၉၉၇–ခုနှစ်။ (စာမျက်နှာ–၂၆၅)။

၂ ပခန်းကျော်၏ ပခန်းကြီးအကြောင်းသိကောင်းစရာများ။ ၁၉၉၇–ခုနှစ်။ (စာမျက်နှာ ၂၃၃–၂၃၉)။

၃ တတိယနံမော်ဆရာတော်၏ သီလဝိသောဓနီကျမ်း။ ၁၉၉၂–ခုနှစ်။ (စာမျက်နှာ–၁၅၁)။

သိက္ခာဝါအကြီးမားဆုံးဖြစ်၍ သာသနာပိုင်တော်တို့ကို အုပ်ချုပ်ကွပ်ကဲတော်မူရ၏။ သက္ကရာဇ်–၁၁၅၃(အေဒီ–၁၇၉၁)ခုနှစ် သက်တော် ၈၃–နှစ်၌ပြန်လွန်တော်မူပါသည်။*၁

၄။ 'နန်' = နန္ဒမာလာတိပိဋကာလင်္ကာရ သိရီဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ရ ပထမဗားကရာဆရာတော်အရှင်နန္ဒမာလာခေါ် အရှင်ဓမ္မာဘိနန္ဒ(အေဒီ ၁၇၃၈–၁၇၉၅)၊ ဆရာတော်အရှင်နန္ဒမာလာသည် ပုခန်းကြီးမြို့နယ် အလယ်ကန်ရွာဇာတိဖြစ်၏။ သက်တော်–၂၀ တွင် မကွေးမြို့စားအတွင်းဝန်၏စတုပစ္စယဒါယကာခံ၍ ရဟန်းပြု ပေးတော်မူပြီး ရဟန်းဒါယကာ အတွင်းဝန်မင်းကပင် အင်းဝမြို့အနောက်ဘက် ဗားကရာတိုက်အတွင်း ကျောင်းကြီးတစ်ဆောင်ဆောက်လှူခဲ့ပါသည်။ ထိုအခါမှစ၍ ဗားကရာဘုန်းကြီးဟုထင်ရှားခဲ့သည်။ အရှင်နန္ဒမာလာသည် ပိဋကတ်၌နှံ့စပ်ကျွမ်းကျင် ရုံမျှမက သက္ကတဘာသာနှင့် ဗင်္ဂလီအက္ခရာစသော ဘာသန္တရကျမ်းစာတို့ကိုပါ တတ်ကျွမ်း၏။ ဗားကရာဘုန်းကြီးအရှင်နန္ဒမာလာသည် စိတ်ဆတ်၏။ စကားပြော ရာ၌ ရှင်းလင်း၏။ အပြောပိုင်၏။ ထို့ကြောင့် သာသနာပြု တစ်ကျိပ်နှစ်ပါးဆုံကြ ရာတွင် ဗားကရာမပါလျှင်လည်းမပြီး၊ ဓမ္မကွန်အလိုကျသာ စစ်ဆေးဆုံးဖြတ်တော် မူသဖြင့် ကြောက်ရွံ့ကြ၏။ ရှင်ဘုရင်ကိုသော်မှ 'သူလဲရွှေနန်းရှင်၊ ငါကလဲ ကညစ်တစ်ချောင်းပိုင်တဲ့ဂုဏ်ရှင်ဖြစ်သူမို့ အလျှော့မပေးနိုင်'ဟု မိန့်ဆိုတော်မူဖူး၏။ မူလပြကွဒိန်အယူအဆကွဲလွဲကြ၍ ဘိုးတော်မင်းမနှစ်သက်ရကာ သင်္ကန်းချွတ် အဝတ်ဖြူလဲစေ၍ ဇာတိရင်း မြိုင်မြို့သို့ပြန်ပို့ရာ ၁၁၆၂–ခုနှစ်၌ ဝတ်ဖြူနှင့်ပင် လွန်တော်မူ၏။*၂ 'အဝတ်ဖြူလဲသော်လည်းသိက္ခာမစွန့်'ဟုအမှတ်အသားရှိလေသည်။*၃

၅။ 'သူ' = သူရိယာဝံသာဘိသိရီပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော်ရ ပထမသဲအင်းသာသနာပိုင်အရှင်သူရိယ(အေဒီ ၁၇၆၃–၁၈၃၉)။ ဆရာတော်အရှင်သူရိယသည် ပုခန်းကြီးမြို့တောင်ဘက် သုံးမိုင်ခန့်အကွာ တူးမြောင်း မြစ်ငယ်အလယ်ကျွန်းရှိ သဲအင်းရွာဇာတိဖြစ်၏။ ငယ်စဉ်ကပင် အင်းဝမြို့ ဘုံကျော် တိုက် ဇရစ်ဆရာတော်၊ မိုးထိတိုက် ထန်းတပင်ဆရာတော်တို့ထံ၌ ပညာသင်ယူ ခဲ့သည်။ သာမဏေပြုပြီးနောက် ပထမဗားကရာဆရာတော်အရှင်နန္ဒမာလာထံ ပညာ သင်ယူကာ အသက် ၂၅–နှစ်အရွယ်ရောက်မှ ပထမဗားကရာဆရာတော်ကိုဥပဇ္ဈာယ် ပြု၍ ရဟန်းဖြစ်တော်မူခဲ့၏။ ဘကြီးတော်မင်းလက်ထက်၌ အိမ်ရှေ့စံသာယာဝတီမင်း

---

*၁ မင်းလှသီရိသီဟသူ၏ ဆရာတော်သံဃာတော် ၁၀၅–ပါးတို့စာရင်း။ လက်နှိပ်စက်မူ၊ ၁၉၂၆–ခုနှစ်။ (စာမျက်နှာ–၅)။ ဦးသုဒဿန၏ ညောင်ကန်သာသနာဝင်။ ၁၃၂၁–ခုနှစ်။ (စာမျက်နှာ ၅၅–၅၈)။

*၂ မင်းလှသီရိသီဟသူ၏ ဆရာတော်သံဃာတော် ၁၀၅–ပါးတို့စာရင်း။ လက်နှိပ်စက်မူ၊ ၁၉၂၆–ခုနှစ်။ (စာမျက်နှာ–၁၃)။ ပခန်းကျော်၏ ပခန်းကြီးအကြောင်းသိကောင်းစရာ။ ၁၉၉၇–ခုနှစ်။ (စာမျက်နှာ ၁၈၅–၁၉၅)။

*၃ လူအမည် ဦးကျော်ထွေးဖြင့်ထင်ရှားပြီး မြိုင်မြို့ ရွှေမြင်တင်စေတီကြီးပေါ်တွင် ဝတ်ဖြူစင်ကြယ်ဝတ်လျက် ကွယ်လွန် ခဲ့ရပါသည်။ ဒေါက်တာသက်လွင်၏ မြိုင်မြို့နယ်ဖွား စာဆိုများ။ သပြေညိုစာပေ၊ ရန်ကုန်မြို့။ ၂၀၀၄–ခုနှစ်။ (စာမျက်နှာ– ၂၉)။

အကိုးကွယ်ခံရပြီး အမရပူရမြို့ သဲအင်းတိုက်တွင် ဝါဆိုကျောင်းတစ်ဆောင် အလှူခံရတော်မူခဲ့၏။ သက္ကရာဇ်–၁၁၉၉(အေဒီ–၁၈၃၇)ခုနှစ် သာယာဝတီမင်းအထွတ်အထိပ်ရောက်သော် ဓမ္မသေနာပတိ သာသနာပိုင်ခန့်တော်မူ၏။ ထိုအချိန်၌ ဆရာတော်မှာ သက်တော် ၇၃–နှစ်ရှိလေပြီ။ သဲအင်းသာသနာပိုင်ဟုတွင်၏။ အဟောအပြောတွင် ယှဉ်ဖက်မရှိအောင်နိုင်နင်း၏။ထို့ကြောင့်ပင် 'စာတတ် ငါးခုန်၊ စာစုံ မကျည်းတော၊ စာပြော သဲအင်း'–ဟု ဥဒါန်းစကားရှိလေသည်။ ထို့နောက် အမရပူရသို့ မြို့တော်ပြောင်းရွှေ့ရာ အမရပူရမြို့၏အရှေ့မြောက်ယွန်း မင်းအိုကျောင်းတိုက်အတွင်း ဝါဆိုကျောင်းတော်၌သီတင်းသုံးနေတော်မူစဉ် သက္ကရာဇ်–၁၂၀၁ (အေဒီ–၁၈၃၉)ခုနှစ်၊ သက်တော် ၇၆–နှစ်တွင်လွန်တော်မူပါသည်။*[၁]

၆။ 'ဥ' = ဥဇ္ဇယျဓမ္မာဘိဝံသ သိရီပဝရာလင်္ကာရဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့တံဆိပ်တော်ရ ဒုတိယမောင်းထောင်ဆရာတော်(ဒုတိယသဲအင်းဆရာတော်) အရှင်ဥဇ္ဇယျဓမ္မ(အေဒီ ၁၇၉၉–၁၈၆၅)။ ဆရာတော်အရှင်ဥဇ္ဇယျဓမ္မသည် ပုခန်းကြီးနယ်၊ ကန္နီမြို့ကျေး ချင်းတွင်းမြစ်ကမ်းနဖူး၌တည်ရှိသော နတ်ရဲတောင်ရွာဇာတိ ဖြစ်၏။ သက္ကရာဇ်–၁၁၆၁(အေဒီ–၁၇၉၉)ခုနှစ်၌ဖွားတော်မူ၏။ အသက် ၁၆–နှစ်ရှိမှရှင်ပြုရပြီး အသက် ၂၀–တွင် ကန္နီမြို့အနောက် ကုသိုလ်တော်သိမ်၌ တောင်ပေါ်ဆရာတော်ကြီးကိုဥပဇ္ဈာယ်ပြု၍ ရဟန်းဖြစ်တော်မူ၏။ ရှင်ဘွဲ့ကား ရှင်ဥဇ္ဇယျ၊ ရဟန်းဖြစ်တော်မူမှ 'ဓမ္မ'တိုးကာ အရှင်ဥဇ္ဇယျဓမ္မဖြစ်၏။ သက္ကရာဇ်–၁၁၈၂(အေဒီ–၁၈၂၀)ခုနှစ်၌ အမရပူရမြို့ ရွှေရေးဆောင်တိုက်၌ ပညာသင်ယူပြီး စာပေပို့ချတော်မူပါသည်။ သက္ကရာဇ်–၁၁၈၄(အေဒီ–၁၈၂၂)ခုနှစ်၌ ဆင်တဲဆရာတော်ထံတော်မှ နက္ခတ်ဗေဒင်သင်ယူ၏။ သက္ကရာဇ်–၁၁၈၆(အေဒီ–၁၈၂၄)ခုနှစ်၌ သဲအင်းသာသနာပိုင်ထံဆည်းကပ်၍ သက္ကရာဇ်–၁၁၉၉(အေဒီ–၁၈၂၇)ခုနှစ်တွင် သာသနာပြုဆရာတော်တစ်ကျိပ်နှစ်ပါးတွင် အပါအဝင်ဖြစ်တော်မူ၍ သာသနာ့အရေးကိစ္စများကို ဆောင်ရွက်တော်မူခဲ့၏။ သာယာဝတီမင်းလက်ထက် သက္ကရာဇ်–၁၂၀၁(အေဒီ–၁၈၃၉)ခုနှစ်၌ သဲအင်းသာသနာပိုင်ဘဝပြောင်းသော် သာသနာပိုင်ဖြစ်တော်မူခဲ့၏။ ဒုတိယသဲအင်းသာသနာပိုင် အရှင်ဥဇ္ဇယျဓမ္မသည် မင်းတုန်းမင်းကြီး၏မိဖုရားခေါင်စကြာဒေဝီငယ်စဉ်က ပညာသင်ပေးရပြီး စကြာဒေဝီမိဖုရားကြောင့် သာယာဝတီမင်းလက်ထက်၌တစ်ကြိမ်၊ မင်းတုန်းမင်းလက်ထက်၌တစ်ကြိမ်၊ နှစ်ကြိမ်တိုင် သာသနာပိုင်ဖြစ်တော်မူခဲ့ပါသည်။ ပဥ္စမသံဂါယနာတင်ပွဲကြီးတွင်လည်း ဦးဆောင်ရှေ့သွားသံဃမဟာနာယကပြုတော်မူခဲ့ရ၏။ သက္ကရာဇ်–၁၂၂၇(အေဒီ–၁၈၆၅)ခုနှစ်၌ မန္တလေးမြို့၌စံနေတော်မူစဉ် ဘဝပြောင်းတော်မူပါသည်။*[၂]

---

၁ ပခန်းကျော်၏ ပခန်းကြီးအကြောင်းသိကောင်းစရာ။ ၁၉၉၇–ခုနှစ်။ (စာမျက်နှာ ၁၉၆–၂၀၀)။

၂ ပခန်းကျော်၏ ပခန်းကြီးအကြောင်းသိကောင်းစရာ။ ၁၉၉၇–ခုနှစ်။ (စာမျက်နှာ ၂၀၀–၂၀၆)။

၇။ 'သု' = သုဒဿနဝရဓမ္မသာမိ မဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်၊ သုဒဿနဓဇ အတုလာဓိပတိသိရီပဝရမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ဟု တံဆိပ်တော်နှစ်ထပ်ရ တတိယစံကျောင်းဆရာတော်ဦးသုဒဿန။

၈။ 'ပဏ်' = ပဏ္ဍိတဓဇသိရီပဝရမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ရ မိုင်းနိုင်းဆရာတော်ကြီးအရှင်ပဏ္ဍိတ။

ရွှေရေးဆောင်ဦးအာဒိစ္စ(ဦးကြည်)နှင့် အရှင်ဉာဏတို့သည် တစ်ကျောင်းတည်းနေ တစ်ဆရာတည်းထွက် ဆရာတူတပည့် သမာနာစရိယပုဂ္ဂိုလ်ချင်းဖြစ်ကြလေရာ ရွှေရေးဆောင်ဦးအာဒိစ္စ၏ အထက်ဖော်ပြပါဆရာတော်ရှစ်ပါးတို့သည်လည်း အရှင်ဉာဏ၏ဆရာသမားအစဉ်အဆက်ဖြစ်သင့်သည်ပင်။ သို့ပါသော် အထက်ပါလင်္ကာ၌ရှစ်ဆက်မြောက်ဖြစ်သော 'ပဏ်'နေရာ၌ အရှင်အာဒိစ္စက မိမိ၏ငယ်ဆရာ အလုံဦးပဏ္ဍိတကိုဖော်ပြသကဲ့သို့၊ အရှင်ဉာဏကလည်း မိမိ၏ငယ်ဆရာ စလင်းဦးပဏ္ဍိစ္စကိုမှတ်ယူ၍ဖော်ပြနိုင်လေသည်။ စလင်းဆရာတော်နှင့် မိုင်းခိုင်ဆရာတော်နှစ်ပါးစလုံး၏ဘွဲ့မှာ 'ဦးပဏ္ဍိတ'နှင့် 'ဦးပဏ္ဍိစ္စ'ဟူ၍ ဖြစ်တော်မူကြသောကြောင့် ရှေ့စာလုံး 'ပဏ်'ချင်း တူနေကြသည်ဖြစ်၍ အထူးပြင်ဆင်ရန်မလိုတော့ပေ။

ကျေးဇူးရှင်လယ်တီဆရာတော်ကြီးကမူ 'ငါတို့သည် မည်သည့်ဆရာသမားတို့ထံမှဆင်းသက်လာသည်'ဟုဖော်ပြခြင်းမရှိခဲ့သော်လည်း၊ လယ်တီဆရာတော်ဘုရားကြီး၏အမွေခံဖြစ်ကြသော တပည့်အစဉ်အဆက်တို့အနေနှင့်မူ မိမိတို့၏ဆရာသမားအစဉ်အဆက်ကို ဗဟုသုတအလို့ငှာ မှတ်သားထားသင့်သောကြောင့် ရွှေရေးဆောင်ဆရာတော်ကြီး၏ ဆရာအစဉ်အဆက်ကိုနည်းမှီး၍ လယ်တီဆရာတော်ဘုရားကြီး၏ဆရာသမားအစဉ်အဆက်ကိုလည်း ဤနေရာ၌ 'ဝံသစင်ကြယ် ငါတို့နွယ်'ဟူ၍ ဖော်ပြရခြင်းဖြစ်ပါသည်။

**တတိယမြောက်ဝါကပ်ဆိုတော်မူခြင်း**

အရှင်ဉာဏသည် သက္ကရာဇ် ၁၂၃၀-ပြည့်နှစ်၊ ဝါဆိုလ (အေဒီ ၁၈၆၈-ခုနှစ်၊ ဇူလိုင်လ)တွင် မန္တလေးမြို့မြောက်ပြင် စံကျောင်းတိုက်ကြီးမှာပင် တတိယမြောက်ဝါကို ကပ်ဆိုတော်မူခဲ့ပါသည်။ ထိုတတိယမြောက်ဝါဆိုသောအချိန်သည် မင်းတုန်းမင်းကြီး၏ကုသိုလ်တော်ပိဋကတ်ပါဠိတော်များကျောက်ထက်ထွင်းထုအက္ခရာတင်၍ ပြီးစီးသောအချိန်ဖြစ်ပါသည်။

ဤသို့ ပိဋကတ်ပါဠိတော်တို့ကိုကျောက်ထက်အက္ခရာရေးတင်အောင်မြင်သည်ကို ကုသိုလ်တော်ဘုရားကျောက်စာတွင် 'အဗ္ဘုတ အစ္ဆရိယ အဟောဝတဖြစ်သော ချီးမွမ်းအံ့သြ၍မကုန်နိုင်သော ကျောက်စာစေတီတော် ၇၂၉-ချပ်တို့သည် ကမ္ဘာဤမြေမကျေမချင်း ထာဝရအစွန့်ရှည်စွာတည်စေသတည်း'ဟု ဖော်ပြထားခဲ့၏။ ကပ္ပဋ္ဌိတိလေးရပ်ကဲ့သို့ ဤသာသနာ၌အရှည်ခန့်အစွန့်ရှည်စွာတည်တံ့နေမည့် ဤပိဋကတ်သုံးပုံ ကမ္ဘာ့အကြီးဆုံးသောစာအုပ်ကြီးသည် ကမ္ဘာ့အံ့ချီးဖွယ်မော်ကွန်းတွင် မှတ်တမ်းတင်ရစ်ခဲ့ပေလိမ့်မည်။ *၁

*၁ ရွှေကိုင်းသား၏ မန္တလေး။ ၁၉၅၉-ခုနှစ်။ (စာမျက်နှာ-၂၃၈)။

မင်းတုန်းမင်းကြီး၏ကုသိုလ်တော် ပိဋကတ်ကျောက်စာတော်များကို စံကျောင်းတိုက်အနီး မဟာလောကမာရဇိန်ကုသိုလ်တော်ဘုရားဝင်းအတွင်း မဟာရံတံတိုင်းပတ်လည်တွင် အုတ်ပြာသာဒ်ဂူတည်ဆောက်၍ တစ်ဂူလျှင်ကျောက်စာတစ်ချပ်စိုက်ထူလျက်ရှိရာ ထိုနေရာသို့ အရှင်ဉာဏရောက်ရှိခဲ့သဖြင့် ပိဋကတ်ကျောက်စာလုပ်ငန်းကိုကြီးကြပ်နေကြရသော ပိဋကတ်တော်အုပ်ဦးယမ်၊ ယောမင်းကြီးဦးဘိုးလှိုင်အစရှိသည့် ပညာရှိပုဂ္ဂိုလ်တို့နှင့် ဆုံဆည်းခွင့်ရရှိတော်မူခဲ့ပြန်ပါသည်။

ပိဋကတ်တော်အုပ်ဦးယမ်

အရှင်ဉာဏ စာပေလေ့လာမှု၌ဝါသနာအားကြီးပုံမှာ အံ့ချီးဖွယ်ကောင်းလှ၏။ မဟာဇောတိကာရာမစံကျောင်းတိုက်၊ သစ်ဆိမ့်တိုက်၊ မကုဋာရာမတိုက်စသည်တိုက်များရှိ ပေစာ၊ ပုရပိုက်စာ စာမှုန်သမျှကိုဖတ်ရှုနေရသော်လည်း အရှင်ဉာဏအဖို့မှာ စာဖတ်၍မဝ,အားရတင်းတိမ်သည်ဟုမရှိခဲ့။ သို့ဖြစ်၍ စံကျောင်းတိုက်နှင့်မနီးမဝေး၌တည်ရှိ၍ မန္တလေးမြို့တော်၏ရှေးပထမတည်ဦးစ သတ္တဋ္ဌာနအပါအဝင်ဖြစ်သော မြောက်ပြင်ပိဋကတ်တိုက်တော်[*၁] သို့သွားရောက်ကာ စာရှာတော်မူခဲ့ပါသည်။

ထိုအချိန်က ပိဋကတ်တိုက်ကိုအုပ်ချုပ်ရသော ပိဋကတ်တော်အုပ်မင်းသည်ကား ရွှေဘိုမင်း၊ ပုဂံမင်း၊ မင်းတုန်းမင်းဟု မင်းသုံးဆက်တိုင်တိုင် မြဲတိုက်သံဆင့်၊ သံတော်ဆင့်၊ ရွှေနန်းတော်မြောက်ဥယျာဉ်တော်မှူး နန်းမတော်ဝန်(ခင်မမင်းဝန်)၊ စစ်ကိုင်းမြို့၊ အလုံမြို့၊ ဒီပဲယင်းမြို့ခရိုင်ဝန်၊ ရတနာလှော်ကားတော်မှူး၊ ရေ့တော်ပြေးမှူး၊ ပိဋကတ်တော်အုပ်၊ မိုင်းခိုင်းမြို့စားအတွင်းဝန် မဟာသေနာပတိမင်းကြီးမဟာသီရိဇေယျသူဘွဲ့စသည့် ရာထူးအဆင့်ဆင့်ဖြင့် မင်းမှုထမ်းရွက်ခဲ့သော ဦးယမ်(အေဒီ ၁၈၁၅–၁၈၉၁)ဖြစ်ပါသည်။[*၂]

ပိဋကတ်တော်အုပ်ဦးယမ်သည် စလင်းမြို့ဇာတိ သက္ကရာဇ် ၁၁၇၇–ခုနှစ်၊ ဝါဆိုလပြည့်ကျော် ၄–ရက် (အေဒီ ၂၇၊ ဇွန်လ၊ ၁၈၁၅)ဖွားဖြစ်သဖြင့် အရှင်ဉာဏနှင့်တွေ့ဆုံရသောအချိန်၌ အသက် ၅၃–နှစ်အရွယ်သို့ရောက်ရှိနေပြီဖြစ်သည်။[*၃] ဦးယမ်သည် မင်းမှုတာဝန်များစွာထမ်းရွက်ရသော်လည်း သူ့ဝါသနာနှင့်ကိုက်ညီသော ပိဋကတ်အလုပ်စာပေအလုပ်မှာသာမွေ့လျော်နေသည်ကများပြီး မင်းထံတွက်ဝင်ခစားမှုလစ်ဟင်းသောကြောင့် မင်းတုန်းမင်းကြီးကပင် 'မောင်ယမ်မှာ သူ့ပိဋကတ်နှင့်သာနေရော့သည်'ဟုဆိုတော်မူခြင်းခံရသည်။

---

*၁ မန္တလေးနန်းတွင်း၌လည်း မင်းတုန်းမင်းကြီး၏ပိဋကတ်တိုက်–ဟုသီးသန့်တစ်ခုရှိသေးသည်။ ထိုမင်းတုန်းမင်း၏ နန်းတွင်းပိဋကတ်တိုက်ရှိ စာပေစာရင်းကို ၁၉၁၀–ပြည့်နှစ်၊ အစိုးရပုံနှိပ်တိုက်၊ ရန်ကုန်မြို့ကပြုစုပြီး ပုံနှိပ်ထားရှိပါသည်။ Prof. V. Fausboll' Catalogue of the Mandalay MSS. in the Indian Office Library. Formerly part of the King's Library at Mandalay. JPTS, 1894. PTS, London, 1896. Page-1.

*၂ ဦးမောင်မောင်တင်(မဟာဝိဇ္ဇာ)၏ အမှတ်တရပုဂ္ဂိုလ်များ။ ဝိဇယစာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၁၃၁)။

*၃ ဦးစန္ဒိမ(စလင်း)၏ စလင်းစေတီယကထာကျမ်းနှင့်သုစာပဏ္ဍ စလင်း။ ၂၀၀၇–ခုနှစ်။ (စာမျက်နှာ–၁၆၅)။

ပိဋကတ်တော်အုပ်ဦးယမ်အုပ်ချုပ်ရသော မြောက်ပြင်ပိဋကတ်တိုက်တော်ကြီးတွင် ရှေးမင်းအဆက်ဆက်တို့စုဆောင်းတော်မူခဲ့ကြသောပိဋကတ်တော်များ၊ ဂန္ထ န္တ ရကျမ်းစာအမျိုးမျိုးတို့ဖြင့် ပြည့်စုံနေသည့်အပြင်၊ မင်းတုန်းမင်းတရားကြီးလက်ထက်တော်၌ စကြာဒေဝီမိဖုရားခေါင်ကြီး၏အမိန့်တော်နှင့် ထပ်မံစုဆောင်းထားသော ကျမ်းဂန်စာပေတို့ကိုဖြည့်စွက်ထားပြန်ပါသောကြောင့် အလွန်ပြည့်စုံသော နိုင်ငံတော်ပိဋကတ်တိုက်ကြီးဖြစ်နေသည်။*၁ ပိဋကတ်တိုက်တစ်တိုက်အနေဖြင့် မည်မျှပင်စာပေကျမ်းဂန်တို့ပြည့်စုံစွာထားရှိစေကာမူ အုပ်ချုပ်သူပိဋကတ်တိုက်ဝန်က စာပေကျမ်းဂန်သင့်ရုံမျှရှိသည်ဆိုလျှင် ထိုပိဋကတ်တိုက်ကိုအသုံးချရန်လာရောက်ကြသော ရဟန်းရှင်လူပညာရှင်များအဖို့ လမ်းညွှန်လမ်းပြမကောင်းသဖြင့် အလိုရှိသမျှကြည့်ရှုခွင့် အသုံးချခွင့်ရကြမည်မဟုတ်။ ယခုမူကား ပိဋကတ်တိုက်ကြီးကလည်း နိုင်ငံတော်ပိဋကတ်တိုက်ကြီးဖြစ်၍ ပြည့်စုံရုံသာမက ပိုလျှံ၍ပင်နေသလို၊ အုပ်ချုပ်သူပိဋကတ်တော်အုပ်မင်းကလည်း စာပေကျမ်းဂန်နှင့်စပ်လာလျှင် စာတိုကလေးကအစ ပိဋကတ်သုံးပုံပါဠိအဋ္ဌကထာကျမ်းဂန်ကြီးများအထိ နှံ့နှံ့စပ်စပ်လေ့လာလိုက်စားထားသော စာပေပညာရှင်ကြီးဖြစ်နေသဖြင့် စာပေဝါသနာကြီးသူအရှင်ဉာဏအဖို့ မြောက်ပြင်ပိဋကတ်တိုက်ကြီးနှင့် ပိဋကတ်တော်အုပ်ဦးယမ်တို့ကို ဆုံဆည်းခွင့်ရခြင်းသည် ထူးခြားသောအခွင့်အရေးကြီးတစ်ရပ်ရရှိခြင်းပင်ဖြစ်တော့သည်။

ပိဋကတ်တော်အုပ်ဦးယမ်သည် အရှင်ဉာဏကို ကျမ်းကြီးကျမ်းခန့်တို့သာမက ကျမ်းဂန်အတိုအစများကိုလည်း ရှာဖွေဖတ်ရှုစေသည်။ စာအချို့ကိုလည်းပို့ချပေးပါသည်။ ထိုစဉ်က ကျောက်ထက်အက္ခရာတင်ခြင်းကိစ္စ၊ သံဂါယနာတင်ရန်ကြိုတင်ပြင်ဆင်သောကိစ္စများကြားမှပင် အရှင်ဉာဏ၏စာဝါကိုပျက်မခံဘဲပို့ချပေးနေသဖြင့် နောင်သောအခါ ဤအကြောင်းတို့ကို တပည့်လယ်တီပဏ္ဍိတကို–

'ငါ့ဆရာဟာ မိုင်းခိုင်းမြို့စားအတွင်းဝန်မင်း ပိဋကတ်တော်အုပ်ကြီးပဲ၊ ငါ ငယ်စဉ်က ငါ့ကို အမြဲစာချပေးတယ်။ သံဂါယနာတင်ရာမှာ ကြည့်ကြပ်ရတာက တစ်ဖက်နှင့်တောင် ဂရုစိုက်မပျက်ရှာဘူး' ဟူ၍ မိန့်ကြားတော်မူခဲ့ပါသည်။*၂

အရှင်ဉာဏသည် ပိဋကတ်တော်အုပ်မင်းနှင့်အကျွမ်းဝင်ခင်မင်သည့်အတွက် ပိဋကတ်တိုက်အတွင်းကြည့်လိုသမျှစာများကို လွတ်လပ်စွာကြည့်ရှုခွင့်ရသော်ငြားလည်း ဦးယမ်၏လက်အောက် ပိဋကတ်တော်အမှုထမ်းသားတို့နှင့်လည်း သင့်တင့်အောင်ဆက်ဆံတော်မူခဲ့သည်။ ဆက်ဆံပုံမှာ မြို့ထဲရွာထဲမှအသုဘရှုပင့်လာ၍လိုက်ရလျှင် အပြန်တွင်အလှူခံရလာသော ဖျင်ပိတ်,

*၁ ထိုပိဋကတ်တိုက်ရှိစာပေအရပ်ရပ်၏ စာရင်းတို့ကို မင်းကြီးဦးယမ်က ပိဋကတ်တော်သမိုင်းစာတမ်း–ဟူသောအမည်ဖြင့် ပြုစုထားပြီးရှိလေသည်။ ဦးယမ်၏ပိဋကတ်သမိုင်းစာရင်းအရ ကျမ်းစာစုစုပေါင်း ၂၀၄၇–ကျမ်း၊ အမျိုးအစားအားဖြင့် ၄၀ ရှိလေသည်။ U Thaw Kaung' Bibliographies Compiled in Myanmar. Études birmanes, EFEO, 1998. Page-405.

*၂ ဒဂုန်ခင်ခင်လေး၏ ပြည်တွင်းဆောင်းပါးပေါင်းချုပ်။ ဒဂုန်ခင်ခင်လေးစာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၅–ခုနှစ်။ (စာမျက်နှာ–၅၁၄)။ ပိဋကတ်အုပ်မင်းဦးယမ်သည် ဒေါ်ဒဂုန်ခင်ခင်လေး၏ အမေဘက်မှ အဘိုးတော်စပ်ပါသည်။



ရေစကြိုဆရာတော်ကြီးဦးဂန္ဓသာရ



စစ်ကိုင်းမြို့ဩောင်ပင်သာဦးပုည



ယောမင်းကြီးဦးဘိုးလှိုင်



ပိဋကတ်တော်အုပ်ဦးယမ်

ငှက်ပျောသီး,အုန်းသီးတို့ကို ကျောင်းတိုက်သို့သယ်မသွားတော့ဘဲ ပိဋကတ်တိုက်သားများကို စွန့်ကြဲလေ့ရှိပါသည်။ ဤအချက်နှင့်စပ်၍လည်း နောင်အခါ တပည့်လယ်တီဦးဝဏ္ဏိတအား-

'တို့များ မသာအသုဘပို့လိုက်ရတဲ့အခါ မသာရှင်များကလှူလိုက်တဲ့ ပိတ်တို့, ငှက်ပျောသီးတို့ရခဲ့လျှင် ပိဋကတ်တိုက်ကလူတွေကို စွန့်ကြဲလိုက်တာပဲ၊ ဒီလိုပေးတော့ သူတို့ကလည်း ပိဋကတ်တိုက်ရောက်ရင် အင်မတန်အဖော်ရပေတယ်၊ အလိုရှိရာ ပေစာစသည်တို့ ကိုဝိုင်းရှာပေးကြတယ်ကွဲ့'ဟု အမှတ်တရအမိန့်ရှိတော်မူပါသည်။

အရှင်ဉာဏသည် မြောက်ပြင်ပိဋကတ်တိုက်ကြီးရှိ ပါဠိပိဋကတ်ဂန္ထန္တရစာမျိုးစုံကိုစိတ်တိုင်းကျ လွတ်လပ်စွာကြည့်ရှုခွင့်ရတော်မူခဲ့သဖြင့် မြောက်ပြင်ပိဋကတ်တိုက်ကြီးသည် စာပေသိုက်, စာပေတက္ကသိုလ်ကြီးဖြစ်လေရာ နောင်အခါ တပည့်ဦးဝဏ္ဏိတကို 'လောကီလောကုတ်မှာ ဘုရင့်စာတော်တွေထဲကအကုန် တို့မကြည့်ဘူးတာမရှိဘူးကွဲ့'ဟု အသံတော်ပြင်းပြင်းဖြင့် မိန့်တော်မူခဲ့ခြင်း ဖြစ်ပါသည်။[*၁]

**စတုတ္ထမြောက်ဝါကပ်ဆိုတော်မူခြင်း**

အရှင်ဉာဏသည် သက္ကရာဇ် ၁၂၃၁-ခုနှစ်၊ ဝါဆိုလ(အေဒီ ၁၈၆၉-ခုနှစ်၊ ဇူလိုင်လ)တွင် မန္တလေးမြို့ မြောက်ပြင်စံကျောင်းတိုက်ကြီးမှာပင် စတုတ္ထမြောက်ဝါကို ကပ်ဆိုတော်မူခဲ့ပါသည်။ ထိုအချိန်ကာလတွင် အရှင်ဉာဏသည် နိုင်ငံတော်၏သုခမိန်ဟု အကျော်ဒေးယျထင်ရှားသော ရွှေပြည်ဝန်ကြီး မကွေးမြို့စား သတိုးမင်းကြီးမင်းလှမဟာမင်းခေါင်သီဟသူဘွဲ့ခံ ယောမင်းကြီး ဦးဘိုးလှိုင်ထံချဉ်းကပ်၍ စာပေလေ့လာနည်းယူခွင့်ရခဲ့ပြန်ပါသည်။

**ယောမင်းကြီးထံနည်းခံခြင်း**

ယောမင်းကြီးဦးဘိုးလှိုင်သည် သက္ကရာဇ်-၁၁၉၁(အေဒီ-၁၈၂၉)ခုနှစ်ဖွားဖြစ်၏။ အဘမှာ ယင်းတော်ဝန်ကြီးဖြစ်၍ အသက်ငယ်စဉ်ကပင် အဖကွယ်လွန်သဖြင့် မင်းတုန်းမင်းသားထံခိုလှုံ ခစားခဲ့ရ၏။ သက္ကရာဇ်-၁၂၁၄(အေဒီ-၁၈၅၂)ခုနှစ် မင်းတုန်းမင်းသားနှင့် ညီတော်ကနောင် မင်းသားတို့ နောင်တော်ပုဂံမင်းကိုခြားနားသည့်အခါပါဝင်ခဲ့ရပြီး အရေးတော်အောင်မြင်သော် သက္ကရာဇ်-၁၂၁၄(အေဒီ-၁၈၅၂)ခုနှစ်၊ အသက် ၂၃-နှစ်ကပင် မင်းလှစည်သူဘွဲ့နှင့် ယောမြို့စား မင်းသားအဖြစ်လည်းကောင်း၊ ကုလားဝန်အဖြစ်လည်းကောင်း သူကောင်းပြုခြင်းခံရ၏။ သက္ကရာဇ်-၁၂၁၉(အေဒီ-၁၈၅၇)ခုနှစ်၌ အတွင်းဝန်ယောမြို့စားအရာ၊ သက္ကရာဇ်-၁၂၂၀ (အေဒီ-၁၈၅၈)ခုနှစ် အသက် ၂၉-နှစ်၌ မင်းကြီးမင်းလှမဟာစည်သူဘွဲ့နှင့် အတွင်းဝန်မဟာသေနာပတိဘွဲ့ရပြီး၊ ပိဋကတ်တော်ကျောက်ထက်အက္ခရာတင်ရာတွင်ကြပ်မတ်ရ၏။ သက္ကရာဇ်-၁၂၂၅(အေဒီ-၁၈၆၃) ခုနှစ်တွင် လီလာဝတီဂဏန်းကျမ်းကိုရေး၏။ သက္ကရာဇ်-၁၂၂၇(အေဒီ-၁၈၆၅)ခုနှစ်၌ အရာမှချော်ကျ၍၊ သက္ကရာဇ်-၁၂၂၈(အေဒီ-၁၈၆၆)ခုနှစ်၌ အမျက်ပြေတော်မူသဖြင့် မူလရာထူးအတိုင်း အမှုတော်ထမ်းခဲ့ရ၏။ သက္ကရာဇ်-၁၂၃၁(အေဒီ-၁၈၆၉)ခုနှစ်၌ ဦးဘိုးလှိုင်သည် အတွင်းဝန်

---

[*၁] ဆရာကြီးဦးလှတင်(ဦးဝဏ္ဏိတ)၏ (၄-၃-၁၉၇၉)နေ့မပြောပြချက်ဖြစ်သည်။

ရာထူးသာမက ကျီဝန်ရာထူးကိုပါတွဲဖက်ထမ်းရွက်ခဲ့ရ၏။ ထိုအချိန်၌ ယောမင်းကြီးအသက် ၄၀-ပြည့်ခဲ့လေပြီ။*၁ အရွယ်အားဖြင့်တင့်တယ် လောကီအဆောင်အယောင်ဘွဲ့ထူးဂုဏ်ထူး ဝိသေသတို့ပြည့်လျှမ်း ပညာအရာမှာလည်းအထွတ်အထိပ်သို့ရောက်နေပါသောကြောင့် လူ့နယ်တွင် တုဖက်ဆွယ်ကင်းနေသောအချိန်ဟုဆိုနိုင်သည်။

ယောမင်းကြီးဦးဘိုးလှိုင်သည် နန်းမြို့တော်အတွင်း နန်းတော်ကြီးမြောက်ဘက်၊ အကွက်နံပါတ်(၅၉)၌နေထိုင်လေရာ အရှင်ဉာဏသည် ယောမင်းကြီး၏အိမ်တော်ရှိရာ နန်းမြို့တွင်းသို့ ကြွရောက်ပြီး ယောမင်းကြီးနှင့်တွေ့ဆုံခွင့်ရရန် ကြိုးစားတော်မူခဲ့သည်။ ယောမင်းကြီးသည် နိုင်ငံအရေး၌ဌာနများစွာကိုတာဝန်ယူရသောပုဂ္ဂိုလ်ဖြစ်၍ တစ်ကြိမ်ကြွသွားသော်လည်းတွေ့ဆုံခွင့်မရ၊ သို့ပါ၍ အကြိမ်ကြိမ်ကြွရောက်ကာမှတွေ့ဆုံခွင့်ရခဲ့၏။ ဤသို့ မိမိကိုတွေ့လိုသောကြောင့် အိမ်တော်သို့အကြိမ်ကြိမ်ကြွလာတော်မူသော အရှင်ဉာဏကို ယောမင်းကြီးက 'မောင်ပဉ္စင်း၊ အိမ်တော်ကိုလာလှချည်လား'ဟု တွေ့စအခါကပင် ရင်းရင်းနှီးနှီးစကားဆိုခဲ့လေသည်။ စင်စစ် ဦးဘိုးလှိုင်သည် ပညာရှင်ဖြစ်သော်လည်း မာနကင်းသူကားမဟုတ်။ မိမိထက်အသက်ဝါကြီး၍ စာပေပရိယတ်လေ့လာသူ ပိဋကတ်တော်အုပ်ဦးယမ်ကိုပင် ရာထူးနိမ့်သဖြင့် 'ဟဲ့-ယမ်'ဟု ခေါ်ခဲ့သူဖြစ်သည်။*၂ ဤသို့ မာနရှိသောအထက်တန်းပညာရှင်ကြီးဦးဘိုးလှိုင်က အရှင်ဉာဏကဲ့သို့ စာသင်သားမျှကို လက်ခံတွေ့ဆုံခဲ့သည်မှာ အရှင်ဉာဏ၏ကံဟုဆိုရပေမည်။

ယောမင်းကြီးက အရှင်ဉာဏကို မည်သည့်တိုက်၌နေ၍ မည်သည့်ဆရာတော်၏တပည့်ဖြစ်သနည်းဟုမေးလျှောက်ရာ၊ အရှင်ဉာဏက- စံကျောင်းတိုက်၌နေ၍ တတိယစံကျောင်းဆရာတော်ကြီးဦးသုဒဿန၏တပည့်ဖြစ်ကြောင်း ဖြေကြားတော်မူ၏။ ယောမင်းကြီးက တစ်ဖန် 'စာများအတော်ကြည့်ဖူးပါရဲ့လား'ဟုမေးလျှောက်ရာ အရှင်ဉာဏက စာပေကျမ်းဂန်ဗဟုသုတအလေ့အလာများပြားသည့်အတိုင်း 'ပါဠိတော်နှင့်တကွ အဋ္ဌကထာ,ဋီကာအစုံကြည့်နိုင်ပါတယ်' ဟုဖြေဆိုတော်မူ၏။

ယောမင်းကြီးနှင့် စာပေလေ့လာနည်းများကိုဆက်လက်ဆွေးနွေးကြရာ လယ်တီဆရာတော်ကြီးလောင်းလျာ အရှင်ဉာဏက 'မြန်မာစာကောင်းကောင်းရေးတတ်ချင်သည်၊ နည်းပေးပါ'ဟု ဆိုလျှင်- ယောမင်းကြီးက မြန်မာစာပေရေးသားပုံရေးသားနည်းစနစ်ကို ဤသို့ရှင်းလင်းလျှောက်ထားပါသည်။ 'မြန်မာစာရေးတတ်ဖို့မှာမခက်၊ စကားပြေရေးတဲ့အခါ ဝါကျတိုတိုရှင်းရှင်း လိုရင်းရေးတတ်ရန်လို၏။ ပါဠိတော်နည်းအသွားအလာအတိုင်း အဖုံးအပိတ်နှင့်ရေးလျှင် စာကောင်းဖြစ်လာ၏'*၃ ဟု နည်းပေးလေသည်။ ထိုပေးသည့်နည်းအတိုင်း အရှင်ဉာဏလိုက်နာကျင့်သုံးပြီး

---

*၁ ဒဂုန်နတ်ရှင်၏ စာပြုစာဆိုပုဂ္ဂိုလ်ကျော်ကြီးများ။ မခင်ရီစာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၁၇-ခုနှစ်။ (စာမျက်နှာ-၂၆၁)။ ယောမင်းကြီးဦးဘိုးလှိုင်၏ ရာဇဓမ္မသင်္ဂဟကျမ်းနိဒါန်း။ ၁၉၉၂-ခုနှစ်။ (စာမျက်နှာ-၂၄)။

*၂ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ ဆိဗ္ဗပိတနေမိကျမ်း။ ပြည်ကြီးမဏ္ဍိုင်ပိဋကတ်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၂၃-ခုနှစ်။ (စာမျက်နှာ-၄၁၂)။

*၃ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ-၆၄)။

ရေးသားတော်မူပါသဖြင့် ထိုအချိန်မှစ၍ အရှင်ဉာဏ၏စာပေအရေးအသားသည် ကွက်ကွက်ကွင်းကွင်း ရှင်းလင်းပေါ်လွင်အောင်ရေးနိုင်ခဲ့သည်။ အကျဉ်းကိုအကျယ်၊ အကျယ်ကိုအကျဉ်း လိုသလိုစီစဉ်၍ သုံးနှုန်းရေးသားနိုင်သည်ဖြစ်ရကား အရှင်ဉာဏ၏အရေးအသားသည် ဩဇာကြီး မြောက်လှပေသည်ဟု ချီးကျူးခြင်းခံခဲ့ရသည်။[*၁] ယောမင်းကြီးသည် လူသာမန်တို့ဖတ်ရှု၍ လွယ်လင့်တကူသိသာအောင်ရေးသားနည်းဖြင့် ရေးသားလေ့ရှိရာ အရှင်ဉာဏသည်လည်း ထိုရေးနည်းကိုလက်ထပ်ရလေသဖြင့် အရှင်ဉာဏရေးသားသောစာတို့မှာလည်း 'သာမန်လူများပင် နားလည်သိမြင် ဆင်ခြင်တွေးဆ သတိသံဝေဂရရှိလာနိုင်လောက်အောင်ရေးသားနိုင်သည်'ဟုလည်းကောင်း၊ 'စေ့စပ်သိပ်သည်းစွာ ပညာနည်းပါးသူလူပြိန်းတို့ပင်လျှင် နားလည်အောင် ရေးသားတော်မူစွမ်းနိုင်သည်'ဟုလည်းကောင်း၊[*၂] အရှင်ဉာဏ၏စကားပြေသည် စံထားနည်းမှီလောက်သော စကားပြေမျိုးဖြစ်သည်-ဟူ၍လည်းကောင်း[*၃] ချီးမွမ်းထောမနာပြုခြင်းခံခဲ့ရပြန်သည်။

အရှင်ဉာဏသည် ယောမင်းကြီးထံမှစကားပြေရေးသားပုံကိုနည်းရပြီးသည့်အခါ ကဗျာလင်္ကာရေးသားနည်းကို နည်းခံတော်မူပြန်ပါသည်။ ထိုခေတ်က ကဗျာလင်္ကာအရေးသန်သော ကင်းဝန်မင်းကြီးလိုပုဂ္ဂိုလ်ကပင် ကဗျာလင်္ကာဘက်၌ ယောမင်းကြီးထံနည်းခံခဲ့ရသဖြင့် ယောမင်းကြီး၏ကဗျာလင်္ကာအမြင့်ရှိပုံကို အကဲခတ်နိုင်၏။ ယောမင်းကြီးသည် စွယ်စုံပညာရှင်ကြီးဖြစ်၏။ ပညာပေးစာပေများကိုသာ ကြောင့်ကြစိုက်နေသည့်အတွက် စကားပြေအရေးများလေရာ ယောမင်းကြီးကို စကားပြေသမားဟုသတ်မှတ်ခဲ့ကြသည်၊ ယောမင်းကြီးသည် ကဗျာလင်္ကာဘက်၌ လေ့လာလိုက်စားခဲ့သော်လည်း ကဗျာလင်္ကာအရေးအသားကားနည်းပါးခဲ့သည်။ ယောမင်းကြီးသည် မြန်မာပျို့ကဗျာလင်္ကာများကိုသာ အလေ့အကျက်ရှိသည်မဟုတ်ဘဲ ပါဠိဂါထာများ၊ သက္ကတဂါထာ၊သက္ကတပြဇာတ်စသော ရှေးဟောင်းကဗျာ၊လင်္ကာ၊ဂီတ၊ပြဇာတ်စသော ကျမ်းဂန်စာပေတို့ကို နှံ့နှံ့စပ်စပ်ဖတ်ရှုလေ့ကျက်ထားသူဖြစ်သည်။[*၄]

ယောမင်းကြီးကလည်း မိမိထံ၌ကဗျာလင်္ကာရေးစပ်ရန်နည်းခံလာသူအရှင်ဉာဏကို 'ကဗျာရေးတတ်ဖို့က မခက်ပါ၊ လေးလုံးစပ်ကိုသတိထားလေ့လာလျှင် ကဗျာတတ်ဖြစ်ကရော့'ဟု အကျဉ်းအားဖြင့်နည်းပေးခဲ့ပါသည်။[*၅] အရှင်ဉာဏသည် စိုင်ပြင်ရှာ၌ ကိုရင်ဘဝကပင် ကဗျာ

---

[*၁] ဆရာကြီးဦးဖေမောင်တင်၏ မြန်မာစာပေသမိုင်း။ သုဓမ္မဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၂၀-ပြည့်နှစ်။ (စာမျက်နှာ-၃၅၁)။

[*၂] ယင်း။ ၁၃၂၀-ပြည့်နှစ်။ (စာမျက်နှာ-၃၅၂)။

[*၃] ဦးသက်တင်နှင့် ဒေါ်ခင်နွဲ့နွဲ့တို့၏ လယ်တီစကားပြေတွင်တွေ့ရသော ဖွင့်ဆိုရှင်းပြရေးနည်း(ဆောင်းပါး)။ တက္ကသိုလ်ပညာပဒေသာစာစောင်၊ အတွဲ-၁၄၊ အပိုင်း-၅။ (စာမျက်နှာ-၂၁)။

[*၄] ယောမင်းကြီးဦးဘိုးလှိုင် ကဗျာလင်္ကာ၌ဝါသနာရှိပုံကို ယောမင်းကြီးရေးသော အလင်္ကာနိဿယကျမ်းကိုကြည့်ပါက သိနိုင်၏။ မောင်အောင်ထွတ်၏ သုဗောဓာလင်္ကာရကျမ်း၏ ရှေ့ပရိဗ္ဗဒသုံးခုကိုလေ့လာခြင်း။ ရန်ကုန်တက္ကသိုလ် အရှေ့တိုင်းပညာဌာနသို့ ၁၉၈၉-ခုနှစ်တွင်တင်သွင်းသော မဟာဝိဇ္ဇာဘွဲ့ယူကျမ်း။ လက်နှိပ်စက်မူ။ (စာမျက်နှာ-၅၁)။

[*၅] လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ-၆၅)။

လင်္ကာကို အလေ့အကျက်ရှိဖူးသဖြင့် ယောမင်းကြီးထံမှအလင်္ကာနည်း၊ ဆန်းနည်းမှစ၍ ကဗျာ၏ သဘောသဘာဝနှင့် ဖွဲ့ဆိုပုံနည်းစနစ်ကိုနည်းခံရရှိတော်မူသောအခါ ကဗျာဉာဏ်ထက်သန် ကဗျာ့မျက်လုံးပွင့်လင်းလာရလေသည်။ သို့ဖြစ်၍လည်း အရှင်ဉာဏရေးသားတော်မူသော ကဗျာများနှင့်စပ်၍ 'ကဗျာဘက်တွင်လည်း နိုက်နိုက်ချွတ်ချွတ်ဉာဏ်ကျက်စားခဲ့သည်' ဟုလည်းကောင်း၊ 'ဓမ္မအကြောင်းနှင့်ပတ်သက်၍ ကဗျာဖွဲ့ဆိုရာတွင် လွန်စွာယဉ်နုနက်နဲသည်' ဟုလည်းကောင်း ချီးကျူးခြင်းကိုခံယူရတော်မူခဲ့သည်။*၁

ယောမင်းကြီးသည် ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာစသောပိဋကတ်သုံးပုံပါဠိကျမ်းဂန်စာပေတို့ကိုလည်း နက်နက်နဲနဲလေ့လာလိုက်စားပြီး အလွန်ထက်မြက်သောဉာဏ်ရှင်ပီပီ ဝေဖန်စိစစ်မှုကိုကား လက်မလွှတ်ခဲ့ပေ။ ယောမင်းကြီးသည် အလွန်ထက်မြက်သောဂမ္ဘီရဉာဏ်ရှင်ဖြစ်သည့်အတိုင်း ပိဋကတ်ကျမ်းဂန်စာပေတို့ကို ဝေဖန်စိစစ်ရာ၌ရဲတင်း၏။ ယောမင်းကြီးထံမှ အရှင်ဉာဏသည် ထိုကျမ်းဂန်စာပေစိစစ်ပုံကို အတော်နည်းရခဲ့ဟန်တူသည်။ သို့ပါသော် ယောမင်းကြီး၏ အချို့သောအယူအဆတို့ကို ထိုအချိန်ကစာပေလေ့လာကာစအခြေနုသေးသော အရှင်ဉာဏအဖို့ ယောမင်းကြီးပြောဟောသမျှကိုသာ မှတ်သားထားခဲ့ရသည်။ အချို့သောဝေဖန်ချက်မျိုးနှင့်စပ်၍ကား အရှင်ဉာဏအဖို့အဆန်းတကြယ်ဖြစ်နေသည်။ သို့ဖြစ်၍ နောင်သောအခါ တပည့်တို့အား–

'ယောမင်းကြီးက ပြောဖူးတယ်ကွဲ့၊ သုတ္တန်ပိဋကတ်လာ အပဒါန်နှင့် ငါးရာ့ငါးဆယ်ခေါ်တဲ့ ပါဠိဇာတ်တွေကို သိပ်မယုံလေနှင့်တဲ့။ အိမ်း –ယောဆိုတာ လူတတ်ကြီးကွဲ့၊ သူဟာ ပထမတန်းပညာရှိကြီးပဲ။ စကားဆန်းအင်မတန်ပြောတတ်တဲ့လူ၊ သူပညာရှိမို့ သူပြောတဲ့စကား ငါမှတ်သားထားတာပဲ။ နို့ပေတဲ့ ဒီအပဒါန်တို့၊ ငါးရာ့ငါးဆယ်ဇာတ်တို့ဟာ အလွန်ခိုင်မာတဲ့သံဂါယနာတင်ကျမ်းတွေဖြစ်တယ်ကွဲ့'*၂

ဟူ၍ ပြန်လည်မိန့်တော်မူပါသည်။

ထို့ပြင် ယောမင်းကြီးက 'အဘိဓမ္မာပိဋက ကထာဝတ္ထုပါဠိတော်ကြီးလာ ပရပက္ခငါးရာနှင့် သကပက္ခငါးရာတို့ကို ကွဲပြားနိုင်နင်းအောင်ကြည့်' ဟူ၍လည်း နည်းပေးတော်မူပါသည်။ ဗုဒ္ဓ၏ အဘိဓမ္မာအယူအဆများကို အခြေအတင်ပြောရာ၌ ကျွမ်းကျွမ်းကျင်ကျင်နိုင်နင်းပြောလိုလျှင် အဘိဓမ္မာပိဋကလာ ကထာဝတ္ထုပါဠိတော်ကိုကြေညက်အောင်ကြည့်ထားရမည်ဟု ပြောကြားခြင်းဖြစ်သည်။

## ကထာဝတ္ထုပါဠိတော်ကိုအာဂုံရတော်မူခြင်း

အရှင်ဉာဏသည် ဗုဒ္ဓအဘိဓမ္မာနှင့်စပ်၍ပြောတတ်ဆိုတတ်လိုသည့်အတွက် ယောမင်းကြီးအကြံပြုသည့်အတိုင်း ကထာဝတ္ထုပါဠိတော်ကို စေ့စပ်သေချာစွာလေ့လာတော်မူခဲ့ပါသည်။

---

*၁ ဦးဖေမောင်တင်၏ မြန်မာစာပေသမိုင်း။ ၁၃၂၀–ပြည့်နှစ်။ (စာမျက်နှာ–၃၅၃၊ ၃၅၄)။

*၂ ဆရာမာယ၏ ကျွန်ခေတ်သာသနာရေး(ဆောင်းပါး)။ သံတော်ဆင့်သတင်းစာတိုက်အထူးထုတ်စာစောင်။ (၄–၇–၁၉၃၆)။

ကထာဝတ္ထုပါဠိတော်ကား အဘိဓမ္မာပိဋကတ်၏ ပဥ္စမမြောက်ကျမ်းဖြစ်သည်။ ကထာဝတ္ထုကျမ်းသည် ပထမသံဂါယနာတင်စဉ်အခါက မာတိကာအကျဉ်းမျှပါဝင်ခဲ့သည်ဟု အဋ္ဌကထာများ၌ပြဆိုထားသည်။ အသောကမင်းလက်ထက် တတိယသံဂါယနာတင်သောအခါမှ အရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်က ကထာဝတ္ထုပါဠိတော်ကိုဟောတော်မူခဲ့ခြင်းဖြစ်သည်။*[၁]

ကထာဝတ္ထုပါဠိတော်တွင် သကဝါဒနှင့်ပရဝါဒဟု ဝါဒနှစ်ရပ်ကိုခွဲခြားပြဆို၍ဟောထားသောကျမ်းဖြစ်၏။ သကဝါဒဆိုသည်မှာ– သက = မိမိ + ဝါဒ = အယူ = မိမိ၏အယူဝါဒ (တတိယသံဂါယနာတင်ထေရ်အရှင်တို့၏အယူဝါဒ၊ တစ်နည်း–ထေရဝါဒကိုဆိုလိုသည်)။ ပရ = သူတစ်ပါး + ဝါဒ = အယူ = ပရဝါဒ = သူတစ်ပါး၏အယူဝါဒ (ထေရဝါဒမှတပါး အခြားသောသာသနာပအညတိတ္ထိယနှင့် အခြားဂိုဏ်းသားတို့၏အယူဝါဒများဖြစ်၏)။ အယူဝါဒတစ်ရပ်ကိုကြည့်ရှုံမှုဖြင့် ဤအယူဝါဒကား ထေရဝါဒမဟုတ်သော အခြားပရဝါဒီတို့၏အယူ, ဤအယူဝါဒကား သကဝါဒီခေါ် ထေရဝါဒတို့၏အယူဟုသိနိုင်ဖို့ရာမှာ စင်စစ် လွယ်ကူသောကိစ္စမဟုတ်ပေ။ အရှင်ဉာဏသည် ယောမင်းကြီးမှာကြားသည့်အတိုင်း ကထာဝတ္ထုပါဠိတော်ကို အပြန်အလှန်မေးဖြေစိစစ်နည်း ရှစ်နည်းခေါ် အဋ္ဌမုခနည်းဖြင့် စကားအသွားအလာ၊ ဝါကျအသွားအလာ၊ ဟောပုံဟောနည်းတို့ကိုလေ့လာတော်မူရာ မကြာမြင့်မီအချိန်ကာလအတွင်းမှာပင် သကဝါဒ,ပရဝါဒဟူ၍ ဝါဒနှစ်ရပ်တို့၌ကွဲပြားစွာကြည့်တတ် ဝေဖန်တတ်ရုံမျှမက ကထာဝတ္ထုပါဠိတော်တစ်ကျမ်းလုံးလိုလိုကိုပင်နှုတ်ငုံဆောင်သည်အထိ ရမိတော်မူခဲ့ပါသည်။

**ပဥ္စမမြောက်ဝါကပ်ဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၃၂–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၇၀–ခုနှစ်၊ ဇူလိုင်လ)တွင် အရှင်ဉာဏသည် မန္တလေးမြို့ မြောက်ပြင်စံကျောင်းတိုက်ကြီး၌ ပဥ္စမမြောက်ဝါကို ကပ်ဆိုတော်မူပါသည်။ ထိုဝါကပ်ဆိုချိန်အတွင်း မြေနန်းတော်ကြီး၌ ကထာဝတ္ထုပါဠိတော်ကြီးကိုအာဂုံပြန်ဆိုတော်မူခဲ့ပါသည်။*[၂]

**ရွှေနန်းတော်ကြီးအတွင်း ကထာဝတ္ထုပြန်ဆိုတော်မူခြင်း**

ရှေးမြန်မာမင်းအဆက်ဆက် သာသနာတော်၏အသက်သည် ဝိနည်းပိဋကဖြစ်သည့်အားလျော်စွာ ဝိနည်းပိဋကတော်ကိုသာအလေးအမြတ်ပြု၍ ဝိနည်းပိဋကကိုနှုတ်ငုံဆောင် အာဂုံပြန်ပွဲတို့ကို ပြုလုပ်ကျင်းပတော်မူလေ့ရှိသည်။ ကျန်သုတ္တန်နှင့်အဘိဓမ္မာပိဋကကိုကား အာဂုံပြန်ပွဲပြုသော

---

*၁ တိပိဋကပါဠိမြန်မာအဘိဓာန်။ အတွဲ–၁။ (စာမျက်နှာ–၃၀)။

*၂ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)က ‘၁၂၃၀–ပြည့် ကျောက်ထက်အက္ခရာတင်ပွဲအပြီး သံဂါယနာတင်ပွဲ၌ စံကျောင်းတိုက်မှအဘိဓမ္မာပိဋကရွတ်ရန်တာဝန်ကျ၍ စံကျောင်းတိုက်သားအရှင်ဉာဏသည် ဖြဲတိုက်တော်ရှိရာဇပလ္လင်ထက်မှနေ၍ကထာဝတ္ထု ပါဠိတော်ကိုပြန်ဆိုကြောင်း’ ဖော်ပြထား၏။ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၂၁)။ လယ်တီဦးလှပိုင်ကမူ ‘ပဥ္စမသံဂါယနာတင်ပွဲပြုလုပ်ရာတွင်လည်း အရှင်ဉာဏဓေသည် ဖြဲတိုက်တော်၌ တစ်ပါးတည်း ကထာဝတ္ထုပါဠိတော်ကြီးကိုပြန်ဆိုခဲ့လေသည်’ ဟုဖော်ပြထား၏။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက် နှာ–၅၆)။ အရှင်ကေလာသက–‘အရှင်ဉာဏသည် ပဥ္စမသံဂါယနာတင်အခမ်းအနား၌ ပါဝင်ရွတ်ဖတ်သရဇ္ဈာယ်မှုကြောင်း’ ဖော်ပြထား၏။ အရှင်ကေလာသ၏ မန္တလေးသာသနာဝင်၊ ဒုတိယတွဲ။ ၁၉၈၂–ခုနှစ်။ (စာမျက်နှာ–၈၉)။

အလေ့ မရှိသလောက်နည်းပါးခဲ့၏။ သို့ပါသော် မင်းတုန်းမင်းကြီးလက်ထက်၌ အဘိဓမ္မာခုနစ်ကျမ်း ပါဠိတော်တို့ကို နှုတ်လွှတ်ရွတ်ဖတ်စေခြင်း၊ အပြန်အလှန်ဆွေးနွေးမေးမြန်းစေခြင်းများပြုလုပ်ရန် အမိန့်တော်ထုတ်ခဲ့သည်။*[၁] စင်စစ် မင်းတုန်းမင်းကြီးသည် တိပိဋကဓရခေါ် ပိဋကတ်သုံးပုံဆောင် ပုဂ္ဂိုလ်ပေါ်ပေါက်ရန် အလွန်ဆန္ဒပြင်းပြခဲ့၏။ ပိဋကတ်သုံးပုံဆောင်မပေါ်ပေါက်ဘဲ တစ်ပုံဆောင်၊ တစ်ကျမ်းဆောင်၊ နှစ်ကျမ်းဆောင်စသည်တို့သည်သာပေါ်ထွန်းခဲ့လေသည်။ သို့ဖြစ်၍ မင်းတုန်းမင်းသည် တံဆိပ်တော်ရ,မရ ဆရာတော် သံဃာတော်တို့ကို နန်းတော်သို့ပင့်ဖိတ် ဆွမ်းဘောဇဉ် ဆက်ကပ်လှူဒါန်းပြီး 'ဆရာတော်တို့ ပိဋကသုံးပုံကိုပြန်ဆိုနိုင်သည့် ရှင်ရဟန်းတို့ကိုရအောင် ပေါ်ပေါက်အောင်အားထုတ်တော်မူကြပါ၊ ဒကာတော်ရေမြေ့ရှင် ပိဋကသုံးပုံဆောင်ပုဂ္ဂိုလ်ကို ပေါ်ထွန်းစေလိုလှပါသည်' စသည်ဖြင့်လျှောက်ထားခဲ့သည်။*[၂] မင်းတုန်းမင်းကြီးလက်ထက်တော် အခါ နှစ်စဉ်ဝါဆိုလ၌ မြေနန်းတော်တွင် သတ္တိဗျတ္တိရှိသည့်သံဃာတော်တို့ကို နိကာယ်ငါးရပ်၊ ပါဠိတော်ကျမ်းတို့ကိုပြန်ဆိုစေသော စာပြန်ပွဲ တစ်နည်း စာနာပွဲတစ်ရပ်ကျင်းပခဲ့သည်။

ထိုစာနာပွဲအကြောင်းကို ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၌–

'မြေနန်းတော်လက်ဝဲလက်ယာဆောင်တွင် သတ္တိဗျတ္တိရှိသည့် သံဃာတော်၊ ဥဘတောဝိဘင်းကုန်ပြန် အင်္ဂါသုံးဆယ်ရသံဃာတော်ငါး၊ ပါရာဇိကဏ်, ပါစိတ်, မဟာဝါမဟာခန္ဓကကုန်ပြန် နှစ်ဆယ့်ကိုးအင်္ဂါလေးချပ်ရသံဃာတော်တစ်၊ ပါရာဇိ ကဏ်ပါဠိတော်, ဘိက္ခုဝိဘင်းနှစ်ဆယ့်ငါးအင်္ဂါရသံဃာတော်တစ်၊ ပါရာဇိကဏ် ဘိက္ခုနီဝိဘင်း ဆယ်အင်္ဂါရသံဃာတော်တစ်၊ ဥဘတောဝိဘင်း, ပဌမပါရာဇိကပြန် သုံးအင်္ဂါရသံဃာတော်ငါးဆယ့်နှစ်၊ စုစုပေါင်းသံဃာအပါးခြောက်ဆယ်တို့ စာပြန်ဆို ကြရာ စာပေသိကြားလိမ္မာသူမှူးတော်မတ်တော်တို့ မူလလက်ခံစာကိုကြည့်ရှုကြ ရမည်အမိန့်တော်မူ၍ ဘဝရှင်မင်းတရားကြီးဘုရား, အရှင်မိဖုရားခေါင်ကြီးဘုရား၊ မယ်တော်ဘုရား သုံးပါး မင်းမိဖုရားအပေါင်းတို့နှင့်ထွက်တော်မူ၍စာနာတော်မူသည်။ ခံဝန်ရင်းစာ တစ်နေ့လျှင် သုံးအင်္ဂါကျပြန်ရသည်။ သံဃာတော်တို့စာပြန်ကြရာ သာသနာပြုဆရာတော်, ပြည်ဆရာတော်, ပုသိမ်ဆရာတော်, စံကျောင်းဆရာတော်တို့ လည်း နေရာတော်ရှေ့ကနေ၍ စာကြပ်မကြရသည်'ဟု ရေးသားပါရှိလေသည်။*[၃]

မင်းတုန်းမင်းကြီးခေတ်၌ ပန်ချို(ဗန့်ချို)တိုက် ငှက်ပျောတောရွာ ကျောင်းထိုင်စာချဆရာတော် ရှင်ဇဝနမထေရ်သည် ပိဋကတ်သုံးပုံပြန် တေပိဋကဘာဏကဖြစ်ကြောင်းကို သေက္ခတောင် ဦးတိလောကမထေရ်၏ပဏ္ဍိတဝေဒနီယဒီပနီကျမ်း၊ နိဂုံးဂါထာ အမှတ်(၃၃)၌– 'ဘဒ္ဒန္တ ဇဝနော

---

*၁ ROB, IX. Page-729.

*၂ အရှင်ကေလာသ၏ အရှင်ဝိစိတ္တသာရာဘိဝံသထေရုပ္ပတ္တိ ခေါ် တိပိဋကဓရဝုတ္တန္တ ဝိကာသိနီ။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၈၀–ပြည့်နှစ်။ (စာမျက်နှာ–၆၂)။

*၃ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၂၈၈)။

ထေရော၊ ပက္ခိရမ္မဝနေဋ္ဌိတော။ တေပိဋကဘာဏကောတိ၊ ဝိဿုတော ယော မုနီသဘော'ဟု ရေးစီထား၏။*၁

ထို့ပြင် မင်းတုန်းမင်းကြီးလက်ထက်တော်အခါမှာပင် ရေစကြိုမြို့နယ်၊ သမန္တပို့ရွာဇာတိ သက္ကရာဇ်–၁၁၇၂ (အေဒီ–၁၈၁၀)ခုနှစ်ဖွား အရှင်သဒ္ဓမ္မသည်လည်း ဝိနည်းငါးကျမ်းကို ဖြန်းဖြန်းကွဲဆောင် အောင်မြင်တော်မူသဖြင့် ဝိနယဓရဘွဲ့ကိုဆွတ်ခူးရတော်မူ၏။ မင်းတုန်းမင်းကြီးက ကြည်ညိုလှ၍ ကျောင်းတိုက်တည်ကိုးကွယ်တော်မူ၏။ ဝိနည်းငါးကျမ်းပြန်ဆိုနိုင်၍ ကျောင်းတိုက်အလှူရတော်မူသောကြောင့် ထိုကျောင်းတိုက်၏အမည်ကို ငါးကျမ်းတိုက်ဟုခေါ်ဝေါ်ခဲ့ကြလေသည်။*၂

မင်းတုန်းမင်းကြီးလက်ထက်အခါက မန္တလေးမြို့အနောက်ပြင် မင်းတဲအီကင်းရပ် ရတနာမဉ္ဇူဘုရားမြောက်ဘက်၌ တုတ်လှမ်းကျောင်းတိုက်ကြီးတည်ရှိရာ ယင်းကျောင်းတိုက်ကြီး၌ 'အရိယဝံသာလင်္ကာရဓဇမဟာဓမ္မရာဇဂုရု'တံဆိပ်တော်ရ တုတ်လှမ်းဆရာတော်ကြီး အရှင်အရိယဝံသအုပ်ချုပ်နေ၏။သက္ကရာဇ်–၁၂၂၂(အေဒီ–၁၈၆၀)ခုနှစ်ခန့်တွင် တစ်နေ့သော် နန်းတော်က စာချွန်တော်တစ်စောင် ဆက်ကပ်လာ၏။ ယင်းစာချွန်တော်၌–'ဒကာတော်ရေမြွေရှင် မြေနန်းတော်၌ ပိဋကဒသုံးပုံစာပြန်ပွဲ ကျင်းပရန်ရှိပါသည်။ ဆရာတော်ဘုရား၏ကျောင်းမှာ အဘိဓမ္မာအရေးကျော်စော်သော ကျောင်းတိုက်ဖြစ်ရာ အဘိဓမ္မာခုနစ်ကျမ်းပြန်ပုဂ္ဂိုလ်သွင်းနိုင်ရန် ကြိုးပမ်းတော်မူပါ'ဟုပါရှိ၏။သို့ဖြစ်၍ တုတ်လှမ်းဆရာတော်ဘုရားကြီးသည် သက္ကရာဇ်–၁၁၈၂ (အေဒီ–၁၈၂၀) ခုနှစ်ဖွား ကပိုင်ရွာဇာတိ အရှင်မဉ္ဇူကို အဘိဓမ္မာခုနစ်ကျမ်း ကျက်မှတ်စေ၍ ဝင်ရောက်ပြန်ဆိုစေတော်မူ၏။ အရှင်မဉ္ဇူသည် ရွှေနန်းတော်ဦးမြေနန်းပြာသာဒ်တော်ကြီး၌ အဘိဓမ္မာခုနစ်ကျမ်းကို ရဲရဲရင့်ရင့်ပြန်ဆိုအောင်မြင်တော်မူခဲ့၏။*၃

ထို့ပြင်လည်း မန္တလေးမြို့အရှေ့ပြင် ခင်မကန်တိုက်ကြီး၏ တတိယနာယကဖြစ်တော်မူသော အရှင်အရိယဝံသသည် ပိဋကသုံးပုံစာပြန်ပွဲတွင် ပဋ္ဌာန်းပါဠိတော်ကြီးကိုပြန်ဆိုအောင်မြင်တော်မူသဖြင့် 'ပဋ္ဌာန်းအာဂုံပြန် ဆင်စွယ်တံဆိပ်တော်'ကို အလှူခံရရှိတော်မူခဲ့၏။*၄

---

*၁ အရှင်တိလောက၏ ပဏ္ဍိတဝေဒနီယဒီပနီကျမ်း။ ပညာ့ဂုဏ်ရည်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၉၄–ခုနှစ်။ (စာမျက်နှာ–၅၇၀)။ အရှင်ကေလာသကမူ– 'ပိဋကသုံးပုံးလုံး ဟုတ်ဟန်မတူပါ၊ ပိဋကတစ်ပုံ,တစ်ကျမ်းစသည် ဆောင်သူဖြစ်ပါလိမ့်မည်'ဟု မှတ်ချက်ချတော်မူ၏။ အရှင်ကေလာသ၏ အရှင်ဝိစိတ္တသာရာဘိဝံသထေရုပ္ပတ္တိ ခေါ် တိပိဋကဓရဝတ္ထု ဝိကာသိနီ။ ၁၉၈၀–ပြည့်နှစ်။ (စာမျက်နှာ–၅၇)။

*၂ အရှင်ကေလာသ၏ အရှင်ဝိစိတ္တသာရာဘိဝံသထေရုပ္ပတ္တိ ခေါ် တိပိဋကဓရဝတ္ထု ဝိကာသိနီကျမ်း။ ၁၉၈၀–ပြည့်နှစ်။ (စာမျက်နှာ–၅၈)။

*၃ အရှင်ကေလာသ၏ အရှင်ဝိစိတ္တသာရာဘိဝံသထေရုပ္ပတ္တိ ခေါ် တိပိဋကဓရဝတ္ထု ဝိကာသိနီကျမ်း။ ၁၉၈၀–ပြည့်နှစ်။ (စာမျက်နှာ–၅၉)။

*၄ အရှင်ကေလာသ၏ အရှင်ဝိစိတ္တသာရာဘိဝံသထေရုပ္ပတ္တိ ခေါ် တိပိဋကဓရဝတ္ထု ဝိကာသိနီကျမ်း။ ၁၉၈၀–ပြည့်နှစ်။ (စာမျက်နှာ–၆၀)။

ထို့ပြင်လည်း မန္တလေးမြို့တောင်ပြင် မြင်းဝန်တိုက်စာချအရှင်ပညာရံသီမထေရ်သည်လည်း ဥဘတောဝိဘင်းပြန်ပုဂ္ဂိုလ်အဖြစ်ထင်ရှားတော်မူခဲ့၏။*[၁]

ထို့ပြင်လည်း တောင်ခွင်သာသနာပိုင်လောင်းလျာ အရှင်ဝိသုဒ္ဓသည် မြောက်ပြင်စံကျောင်းတိုက်၌အရှင်ဉာဏနှင့်အတူနေစဉ်မှာပင် မြေနန်းတော်တွင်ကျင်းပပြုလုပ်သော စာပြန်ပွဲသဘင်မှာ အဘိဓမ္မာပိဋက ဝိဘင်းပါဠိတော်နှင့် ပဋ္ဌာန်းပါဠိတော်တို့ကို ပြန်ဆိုအောင်မြင်တော်မူသဖြင့် ဆင်စွယ်တံဆိပ်တော်ကို အလှူခံရရှိတော်မူခဲ့၏။*[၂]

လယ်တီဆရာတော်လောင်းလျာအရှင်ဉာဏသည်လည်း ရဟန်းငါးဝါအရတွင် မြနန်းစံကျော် ရွှေနန်းတော်ကြီးအတွင်း မြေနန်းတော်ပြာသာဒ်၌ သာသနာပြုဆရာတော်ဘုရားကြီးများအမှူးရှိသော စာစစ်ဆရာတော်ကြီးများ၊ စာပေတတ်သိလိမ္မာသော မှူးတော်မတ်တော်များနှင့် စာနာရောက်လာသည့် မင်းဆွေမင်းမျိုးစသော မင်းပရိသတ်တို့ရှေ့မှောက်တွင် စာပြန်ပလ္လင်ထက်၌ရဲဝံ့ပြတ်သားစွာ အဘိဓမ္မာပိဋက ကထာဝတ္ထုပါဠိတော်ကြီးကိုပြန်ဆိုတော်မူခဲ့သည်။ ထိုအခါ ရဟန်းပရိသတ်, ရှင်ပရိသတ်, လူပရိသတ်, မင်းပရိသတ်တို့က ရဲစွမ်းသတ္တိရှိလှပါပေသည်ဟု အံ့သြချီးမွမ်းကြသည်ဟူ၏။*[၃]

## ဆဋ္ဌမမြောက်ဝါဆိုတော်မူခြင်း

၁၂၃၃–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၇၁–ခုနှစ်၊ ဇွန်လ)တွင် အရှင်ဉာဏသည် မန္တလေးမြို့ စံကျောင်းတိုက်ကြီးမှာပင် ဆဋ္ဌမမြောက်ဝါကိုကပ်တော်မူပါသည်။ ထိုနှစ်တွင် သာသနာ့သမိုင်း၌ အလွန်တရာကြုံရခဲလှစွာသော မင်းတုန်းမင်းကြီးကသိုလ် ပဉ္စမသင်္ဂါယနာတင်ပွဲကြီးကို အရှင်ဉာဏ ကြုံတွေ့ရပြီး ထိုသင်္ဂါယနာတင်ပွဲမှာလည်း သင်္ဂီတိကာရကအဖြစ် ကိုယ်တိုင်ကိုယ်ကျပါဝင်ဆင်နွှဲတော်မူခဲ့ပါသည်။

## ပဉ္စမသံဂါယနာတင်ပွဲကြီး

သက္ကရာဇ် ၁၂၃၃–ခုနှစ်၊ တန်ခူးလပြည့်ကျော် ၁၁–ရက် (နှစ်ဆန်းတစ်ရက်) (အေဒီ–၁၅၊ ဧပြီလ၊ ၁၈၇၁)ကောင်းမြတ်သောမင်္ဂလာအခါတော်၌ အမြောက်သံကြားစေပြီးမှ မင်းတုန်းမင်းကြီးသည် အရှင်နန်းမတော်မိဖုရားခေါင်ကြီးနှင့်တကွ မင်းညီမင်းသား မှူးတော်မတ်တော်အပေါင်းတို့ဖြင့်ခြံရံလျက်ထွက်တော်မူရာ ရွှေနန်းပြာသာဒ်တော်ဦးမြေနန်းတော်တွင် အခမ်းအနားကြီးကျယ်စွာ စီမံခင်းကျင်းထားပြီးလျှင် သာသနာပြုသုဓမ္မာဆရာတော်, တံဆိပ်တော်ရ,မရ ဆရာတော်သံဃာတော်တို့ကို လျှောက်ထားတောင်းပန်၍ ပဉ္စမသံဂါယနာသဘင်ဆင်ယင်တော်မူသည်။

---

*[၁] အရှင်ကေလာသ၏ အရှင်ဝိစိတ္တသာရာဘိဝံသထေရုပ္ပတ္တိ ခေါ် တိပိဋကရေဝုတ္တန္တ ဝိကာသိနီကျမ်း။ ၁၉၈၀–ပြည့်နှစ်။ (စာမျက်နှာ–၆၁)။

*[၂] ဦးနာရဒါဘိဝံသ၏ တောင်ခွင်သာသနာပိုင်ဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိဒီပနီကျမ်း။ ၁၉၃၉–ခုနှစ်။ (စာမျက်နှာ–၃၄)။

*[၃] လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၂၂)။ ROB, IX. Page-748.

တိပိဋကဓရ သိက္ခာကာမ သီလဝိသုဒ္ဓိဖြစ်သော တံဆိပ်တော်ရ,မရ သံဃာတော် ၂၄၀၀-ပါးတို့သည် ရွှေနန်းပြာသာဒ်တော်ကြီး၏ သီဟာသနရာဇပလ္လင်တော်ရှေ့တွင် ဝိနည်းပိဋကတ်တော်ကို အဦးထား၍ ပိဋကတ်သုံးပုံကိုအစဉ်သဖြင့်ပေါင်း၍ သရဇ္ဈာယ်တော်မူကြရာ ငါးလနှင့်သုံးရက်ပြည့်သော သက္ကရာဇ် ၁၂၃၃-ခုနှစ် တော်သလင်းလပြည့်ကျော် ၁၄-ရက် (အေဒီ ၁၂၊ စက်တင်ဘာလ၊ ၁၈၇၁-ခုနှစ်)၌ ပဉ္စမသံဂါယနာသဘင် ပြီးစီးအောင်မြင်တော်မူလေသည်။*၁

ပဉ္စမသံဂါယနာတင်ပွဲကြီး၌ သံဃာအပေါင်းစုဝေး၍ရွတ်ဆိုကာ ဂဏသဇ္ဈာယ သံဂါယနာတင်တော်မူကြရာတွင် မြို့တော်လေးပြင်လေးရပ်ကျောင်းတိုက်များမှ သံဃာတော်အရှင်မြတ်များ၏ ဝေပုံချစာရင်းပုရပိုက်မူတွင် 'စံကျောင်းတိုက်မှသံဃာ ၁၄၄-ပါးကြွရောက်တော်မူ၍ ပေအရေအတွက် ၆၆-အင်္ဂါနှင့် ၉-ချပ်ရှိသည့် သံယုတ္တနိကာယ်ပါဠိတော်ကို ပါဝင်ရွတ်ဆိုတော်မူကြရကြောင်း' မှတ်တမ်းတင်ဖော်ပြထားပါသည်။*၂ ထိုအချိန်က စံကျောင်းတိုက်၌ စာသင်သားအဖြစ်သီတင်းသုံးလျက်ရှိသော စံကျောင်းတိုက်သားအရှင်ဉာဏသည်လည်း စံကျောင်းတိုက်သံဃာတော် ၁၄၃-ပါးတို့နှင့်အတူ မြေနန်းတော်ကြီး၌ကျင်းပသော ပဉ္စမသင်္ဂါယနာတင်ပွဲတွင် သံယုတ္တနိကာယ်ပါဠိတော်ကို သံဂီတိဘာဏကပုဂ္ဂိုလ်အဖြစ် ပါဝင်ရွတ်ဆိုတော်မူခဲ့ပါသည်။*၃

**ယောမင်းကြီး၏ အရက်တရား**

ပဉ္စမသံဂါတင်ပွဲကြီးပြီးစီးအောင်မြင်၍ ထိုနှစ်(အေဒီ-၁၂၈၇-၁၂၉၈)တန်ဆောင်မုန်းလ (အေဒီ ၁၈၇၁-ခုနှစ်၊ အောက်တိုဘာလ)တွင် ယောမင်းကြီးဦးဘိုးလှိုင်သည် ပုဂံခေတ်က ကျော်စွာမင်းတည်ခဲ့သော ရှေးဘုရားတစ်ဆူကိုပြုပြင်ရန် တာဝန်ဖြင့် စလင်းမြို့သို့သွားစဉ် စလင်းမြို့မရောက်မီ မြင်းခြံမြို့အရောက်တွင် စကားစပ်လျှဉ်းမိသည်နှင့်- 'ဖျစ်ရည်သည် ဆေးခါးကြီးရည်နှင့်တူကြောင်း၊ ဆေးအဖြစ်အနည်းငယ်သောက်လျှင် အပြစ်မရှိကြောင်း၊ များစွာသောက်လျှင်မူးယစ်တတ်ခြင်းကြောင့် အပြစ်မကင်းကြောင်း' စသည် ဖြင့်ပြောဆိုလေ၏။*၄ ဤသို့ ယောမင်းကြီးပြောဟောသော

*၁ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈-ခုနှစ်။ (စာမျက်နှာ-၃၈၄)။

*၂ ဆရာကြီးဦးသက်တင်(ရာဇဝင်ကထိက)စုဆောင်းထားသော ပုရပိုက်မူမှ။ ပဉ္စမသင်္ဂါယနာတင်စဉ်က ရွတ်ဆိုခဲ့သော သံဂီတိကာရကသံဃာစာရင်းနှင့် နိကာယ်ငါးရပ်ပါဠိတော်ကျမ်းများစာရင်း။

*၃ အရှင်ဉာဏသည် မိမိနှင့်ဘွဲ့တူ ရမည်းသင်းမြို့ အုံးပင်ရပ်ဇာတိ အရှင်ဉာဏနှင့် အတူတကွ သံယုတ္တနိကာယ်ကိုသင်ယူခဲ့ကြကြောင်းကို ဖော်ပြခဲ့ပြီးဖြစ်ပါသည်။ ဆင်ကျုံးဆရာတော်၏ ရမည်းသင်းခရိုင်သာသနာဝင်သမိုင်း။ ၁၉၉၆-ခုနှစ်။ (စာမျက်နှာ-၇၉) လည်းရှု။ လယ်တီဆရာတော်ကြီး၏ ထေရုပ္ပတ္တိများတွင် ဤပဉ္စမသင်္ဂါယနာတင်ပွဲ၌ လယ်တီဆရာတော်ကြီးလောင်းလျာ အရှင်ဉာဏသည် ကထာဝတ္ထုပါဠိတော်ကို တစ်ပါးတည်းရွတ်ဆိုခဲ့သည်-ဟုရေးကြသည်။ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၂၀)။ ဗမာ့ခေတ်သတင်းစာတိုက်၏ လယ်တီထေရုပ္ပတ္တိချုပ်။ (စာမျက်နှာ-၉)။ ဦးတိုက်ဝမ်း၏ ဝါတော်စဉ်ထေရုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ-၉) စသည်...။

*၄ ယောမင်းကြီးဦးဘိုးလှိုင်၏ ရာဇဓမ္မသင်္ဂဟကျမ်း။ ယောမင်းကြီးစာပေ၊ ရန်ကုန်မြို့။ ၁၉၉၂-ခုနှစ်။ (စာမျက်နှာ-၅၂)။ ဦးတင်အုန်း(ရွှေသွေး)၏ ယောအတွင်းဝန်အတ္ထုပ္ပတ္တိ။ ယုဝရောင်စုံပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၆၀-ပြည့်နှစ်။ (စာမျက်နှာ-၁၂၆)။

ဗျစ်ရည်အကြောင်းကိုအထောက်တော်တို့က မင်းတုန်းမင်းကြီးရှေ့နားတော်သို့ 'ယောမင်းကြီးသည် ဗျစ်ရည်သောက်လျှင် အပြစ်မရှိကြောင်းဟောပြောနေသည်' ဟု အဓိပ္ပာယ်အလိုရှိသလိုဆွဲကာ သတင်းပို့လျှောက်တင်ကြ၏။ မင်းတုန်းမင်းကြီးလည်း အမျက်တော်ရကာ ယောမင်းကြီးကို ရာထူးမှဖယ်ရှားပြီး အမရပူရ၌ အကျယ်ချုပ်နှင့်နေစေ၏။

ယောမင်းကြီးက ဗျစ်ရည်သည် အနောက်နိုင်ငံဆေးကျမ်းအလိုအားဖြင့် ဆေးခါးကြီးရည် ဖြစ်ပါသည်။ အသင့်အတင့်သုံးပါက လေကိုနိုင်ပါသည်။ ရင်ချောင်ပါသည်။ စားသောက်၍ မြိန်ရှက်ပါသည်။ လွန်မင်းစွာသောက်ပါက မူးယစ်စေတတ်ကြောင်း'*၁ ကို ရှင်းလင်းလျှောက်ထားပါသော်လည်း မင်းတုန်းမင်းကြီးက 'နိုင်ငံတွင်းရှိကျေးတော်မျိုးကျွန်တော်မျိုးတို့သည် ပညာရှိမဟုတ်ကြကုန်။ ရွှေပြည်ဝန်ကြီးက အရက်သောက်လျှင်အပြစ်မရှိဘူးဟု ၎င်းတို့လိုရာ အဓိပ္ပာယ်ကောက်လျှင် တစ်နိုင်ငံလုံးသောက်စား၍ အပါယ်သို့သွားရာလမ်းကိုဖောက်ပေးသည် နှင့်မတူပေဘူးလား' ဟုအမိန့်ရှိကာ ယောမင်းကြီးကိုအကျယ်ချုပ်နှင့်နေစေတော်မူခဲ့ပါသည်။*၂

ယောမင်းကြီး၏အရက်အမှုကိုပြန်လည်စစ်ဆေးသောအခါ ယောမင်းကြီးက 'ဘုရားဟောရင်း ပါဠိတော်မှာ ဘာဝိတံ ဗဟုလီကတံ ဝါ–ပါသည်ကိုထောက်ထား၍ ပွားများစွာ အကြိမ်များစွာ သောက်၍ မူးယစ်မှအပြစ်ရှိကြောင်း၊ သုရာမေရယမှာ ကမ္မပထမှာမပါ၊ သုရာမေရယမှုကို ကာမေသုမိစ္ဆာစာရသိက္ခာပုဒ်အတွင်း ထည့်သွင်းကောက်ယူရကြောင်း၊ ဆေးနှင့်ရော၍သောက် လျှင် ဆေးအဖြစ်မျှတရုံသောက်လျှင် အပြစ်မရှိကြောင်း ထပ်မံရှင်းလင်းလျှောက်ထားသည်' ဟု ဖော်ပြထားပါသည်။*၃

အခြားမှတ်တမ်းတစ်စောင်တွင်မူကား– 'အရက်သေရည်သောက်စားခြင်းနှင့်ပတ်သက်၍ မူးအောင်မသောက်လျှင် အပြစ်မရှိသည့်အယူအဆကို ယောအတွင်းဝန်ဦးဘိုးလှိုင်ထက် ပြင်းထန် သောပုဂ္ဂိုလ်များမှာ စံကျောင်းဆရာတော်၊ ဆူးခါးဆရာတော်ဦးတေနောင်တို့ဖြစ်သည်' ဟူ၍ လည်းဖော်ပြထားပါသည်။*၄

---

*၁ ယောမင်းကြီးသည် ဗျစ်ခါး (Beer Stout Porter)တွင် မူးယစ်စေတတ်သော အလ်ကိုဟော (Alcohol)ကို ရေအချိန် ၁–ပိဿာ၌ ၄–ကျပ်သား၊ ဂုံခါး ၆–ကျပ်သားမျှသာထည့်ဖော်စပ်ထားခြင်းဖြစ်၍ ဗျစ်ခါးအနည်းငယ်သောက်သုံးရုံမျှဖြင့် မမူးနိုင်ကြောင်း၊ ဆေးဖက်ဝင်ကြောင်းကို စကားစပ်၍ပြောဆိုခြင်းဖြစ်၏။ ဗျစ်ခါးရည်စပ်နည်းကို ယောမင်းကြီး၏ ဥတုဘောဇနသင်္ဂဟကျမ်း။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၈၃–ခုနှစ်။ (စာမျက်နှာ–၁၆၇)၌ရှုပါ။

*၂ မော်ဖီဆရာသိန်းကြီး၏ မြန်မာဝန်ကြီးမှူးကြီးများအတ္ထုပ္ပတ္တိ။ မြန်မာ့ဂုဏ်ရည်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၂၉–ခုနှစ်။ (စာမျက်နှာ–၈၉)။

*၃ ယောမင်းကြီးဦးဘိုးလှိုင်၏ ရာဇဓမ္မသင်္ဂဟကျမ်း။ ၁၉၈၂–ခုနှစ်။ (စာမျက်နှာ–၅၄)။

*၄ ဦးတင်အုန်း(ရွှေသွေး)၏ ယောအတွင်းဝန်အတ္ထုပ္ပတ္တိ။ ၁၉၆၀–ပြည့်နှစ်။ (စာမျက်နှာ–၁၂၇)။ ဦးတင်အုန်းက ယင်းစာအုပ် (စာမျက်နှာ–၁၃၀)၌ 'စံကျောင်းဆရာတော်သည် ထိုအယူရှိသော်မူသည့်အတိုင်း တပည့်လယ်တီဆရာတော်ကလည်း ထိုအတိုင်းပင်ဆုံးဖြတ်၍ ပရမတ္ထဒီပနီဋီကာပါဌ်တွင်ရေးသားတော်မူခဲ့သည်' ဟု ဖော်ပြထား၏။

ဤနေရာ၌ရှင်းလင်းရန်မှာ စံကျောင်းဆရာတော်ကြီးနှင့် ဆူးခါးဆရာတော်ကြီးတို့ အကြောင်းပင်ဖြစ်သည်။ ယောမင်းကြီး၏ သုရာမေရယကံသည် ကမ္မပထမမြောက်ဟူသော အယူအဆကို စံကျောင်းဆရာတော်ကြီးလက်ခံတော်မူသည်ဟုရေးရာတွင် စံကျောင်းဆရာတော်ကြီးက ပဉ္စသီလဝိနိစ္ဆယ၌– 'သုရာမေရယကံသည် ကမ္မပထမြောက်သောကံလော၊ မမြောက်သောကံလောဟုအမေးရှိသော် xxx မုချဆတ်ဆတ် ကမ္မပထမြောက်၏မှတ်ရမည်'ဟုရေးထားတော်မူခဲ့လေရာ စံကျောင်းဆရာတော်ကြီးသည် ယောမင်းကြီးဝါဒကို သဘောတူမဟုတ်ကြောင်းမှာ ထင်ရှားနေပါသည်။*၁

ဆူးခါးဆရာတော်ကြီးဦးတေနောင်သည် သုရာမေရယကံကို ကမ္မပထမမြောက်ကြောင်း အယူအဆကို လက်ခံတော်မူသည်နှင့်စပ်လျဉ်း၍ အတိအကျဖော်ပြထားသောမှတ်တမ်းမရှိသော်လည်း မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ဆိဒ္ဓပိဓာနနီကျမ်း(စတုတ္ထတွဲ)၌ 'ဆူးခါးဆရာတော်ဆိုသူ ဆရာတော်တစ်ပါးသည် ထန်းရည်အရက်များကိုသောက်ကောင်း၏၊ အပြစ်မထင်ဟုပြောဆိုနေသည်ကိုကြား၍ ဆရာတော်များကို အိမ်သို့ဆွမ်းစားပင့်ပြီးလျှင် သံဃာအစည်းအဝေး၊ မှူးမတ်အရာရှိအစည်းအဝေး၌ လယ်ကိုင်းမြို့စားသေနတ်ဝန်ကင်းဝန်မင်းကြီးက 'ဆူးခါးဆရာတော်၊ မြတ်စွာဘုရားတရားတော် ဓမ္မက္ခန္ဓာရှစ်သောင်းလေးထောင်ရှိသည့်အနက် သုရာပါနကိုချန်ထား၍ ကျန်ရှစ်သောင်းသုံးထောင်ကိုးရာကိုးဆယ့်ကိုးပါးဟောဖို့ရာ တရားတွေပေါ်များပါ၏။ ထန်းရေအရက်ကိုသောက်ကောင်း၏ဆိုသော သုရာပါနတရားကိုမဟောပြောပါနှင့်'ဟု လျှောက်ထားသောကင်းဝန်မင်းကြီးစကားကဲ့သို့ရေးသားထားတော်မူသည်ကိုထောက်လျှင် ဆူးခါးဆရာတော်သည် သုရာပါနသောက်ကြောင်းအယူကိုလက်ခံတော်မူသည်မှာ မှန်ပေလိမ့်မည်။*၂

အရှင်ဉာဏသည် ယောမင်းကြီး၏အရက်သောက်ခြင်းသည် အကုသိုလ်ကမ္မပထဆယ်ပါး၌မပါဟု ယောမင်းကြီး၏အယူအဆကိုလက်ခံတော်မူခဲ့၏။ 'အကုသိုလ်ကမ္မပထဆယ်ပါး၌မပါသဖြင့် အရက်သေစာသောက်စားက အပါယ်သို့ကျတတ်လင့်ကစား ကောင်းစွာကုစားလျှင် ထိုအပါယ်သို့လားစေမှုမှ ပပျောက်နိုင်၏'ဟုလည်းယူတော်မူ၏။ ထို့ကြောင့် 'သုရာပါနကံသည် ကမ္မပထအမှုရင်းမျိုးမဟုတ်လေသောကြောင့် နေရာတကျကုစားခဲ့လျှင် ပပျောက်လွယ်သောတရားမျိုးဖြစ်၏။ ပဋိသန္ဓေအကျိုး၊ ပဝတ္တိဝင့်ဝိပါက်အကျိုးတို့မှကင်းလွတ်စေနိုင်ရန် လွယ်သောအခွင့်ရှိ၏'*၃ ဟု မိမိ၏အယူအဆကို ထင်ရှားပြတော်မူခဲ့၏။ ထို့ပြင် အရှင်ဉာဏက 'အရက်သောက်ခြင်းသည် အကုသလကမ္မပထမြောက်၊ အကုသလကမ္မပထ၌မမြောက်၍ ပဋိသန္ဓေအကျိုးကို မုချဆတ်ဆတ်မပေးနိုင်။ အရက်သေစာသောက်စားမှုကြောင့် အပါယ်လားသည်ဆိုရာတွင်လည်း အနီးအပါးဖြစ်သော ကံ၏အစွမ်းဖြင့်သာလျှင် ထိုသုရာပါန၏ အပါယ်သို့လားစေ

*၁ လယ်တီဆရာတော်ကြီး၏ သီလဝိနိစ္ဆယပေါင်းချုပ်။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁၂၆)၊

*၂ မဟာဝိသုဒ္ဓါရုံဆရာတော်၏ ဆိဒ္ဓပိဓာနနီကျမ်း။ ၁၃၂၃–ခုနှစ်။ (စာမျက်နှာ–၄၁၁)။

*၃ မောင်သုတ၏ စာဆိုတော်များအတ္ထုပ္ပတ္တိ။ ၂၀၀၂–ခုနှစ်။ (စာမျက်နှာ–၅၀၃)။

တတ်သည်၏အဖြစ်ဟောခြင်း'ဟု လက်ခံတော်မူသည်။ ထို့ပြင် အရှင်ဉာဏသည် 'ဣမာယ ပါဠိယာ တဿ ဝိသုံ ကေန္တ ကမ္မပထဘာဝံ မညန္တိ =ဤ(အဋ္ဌကထာ)ပါဠိဖြင့် ထိုသုရာပါန၏ အခြား စင်စစ် ကမ္မပထ၏အဖြစ်ကိုမှတ်ထင်ကြကုန်၏'ဟု ရေးသားတော်မူခဲ့ဖူးသည်။*၁

ယောမင်းကြီးဦးဘိုးလှိုင်သည် ခြောက်လခန့်အကျယ်ချုပ်နှင့် အမရပူရမြို့၌နေစဉ်အတွင်း နံနက်တိုင်း ပဌမခင်မကန်ဆရာတော်ဦးပြားထံ နေ့စဉ်ဆွမ်းတစ်အုပ် ပေးပို့လှူဒါန်းစေခဲ့သည်။ တစ်နေ့သော် ဆရာတော်ဦးပြားက 'ဟဲ့–ဘိုးလှိုင်၊ အမရပူရမြို့မှာ သင်းဘာလုပ်နေသတုန်း'ဟု အမေးတော်ရှိရာ ဒုတိယခင်မကန်ဆရာတော်လောင်းလျာက ယောမင်းကြီး၏ဖြစ်ပျက်ပုံအလုံးစုံကို လျှောက်ထားလေလျှင် ခင်မကန်ဆရာတော်ဦးပြားသည် နန်းတော်သို့ကြွတော်မူပြီး မင်းတုန်းမင်းကြီးအား 'ကာမာဝစရကံညွှံ့သူမှာ ဆေးခါးကြီးရေကို ဗျစ်အရက်ဖြစ်အောင် ပြောရကိန်း ကြုံကြိုက်ရတတ်ကြောင်း' စသည်ဖြင့် ကာမာဝစရကံအကြောင်းတရားတော်ကို ဟောတော်မူလေ၏။ မင်းတုန်းမင်းကြီးကလည်း ခင်မကန်ဆရာတော်ကြီး၏ဆိုလိုသောသဘောကို ရိပ်မိတော်မူသဖြင့် ယောမင်းကြီးဦးဘိုးလှိုင်ကို မူလရာထူးအဆောင်အယောင်အတိုင်း ပြန်လည်ချီးမြှောက်ခြင်းပြုတော်မူပါသည်။*၂

**စစ်ကိုင်းမြို့သို့ကြွတော်မူခြင်း**

အရှင်ဉာဏသည် မန္တလေးမြို့ မြောက်ပြင်စံကျောင်းကြီး၌ပညာသင်ယူနေတော်မူစဉ်အတွင်း စစ်ကိုင်းမြို့သို့ မကြာခဏကြွတော်မူလေ့ရှိပါသည်။ စစ်ကိုင်းမြို့သို့ကြွတော်မူရခြင်းမှာ ထိုအချိန်က စာပေအရာ၌ စလေဦးပုညတို့ကဲ့သို့ပင်ထင်ရှားခဲ့သော စာပေပညာရှင်ကြီး ညောင်ပင်သာဦးပုည (အေဒီ ၁၈၂၈–၁၉၀၁)နေထိုင်လျက်ရှိပြီး ထိုပုဂ္ဂိုလ်ကြီးထံသို့ကြွတော်မူခြင်းဖြစ်သည်။ ကြွရောက်ရခြင်းအကြောင်းမှာ မှတ်သားဖွယ်စာပေဆိုင်ရာသုတအဖြာဖြာကို မှတ်သားလို၍ဖြစ်သည်။

ညောင်ပင်သာဦးပုညသည် ရတနာပုံမန္တလေးခေတ်၌ ထင်ရှားကျော်ကြားသော စာပေပညာရှင်ကြီးတစ်ဦးဖြစ်သည်။ သက္ကရာဇ် ၁၁၉၀–ပြည့်(အေဒီ–၁၈၂၈)ဖွား စစ်ကိုင်းမြို့ အစေခံရပ်ဇာတိဖြစ်ပြီး၊ သက္ကရာဇ်–၁၂၀၉(အေဒီ–၁၈၄၇)ခုနှစ်တွင် ရဟန်းပြုတော်မူခဲ့သည်။ မန္တလေးမြို့၌ သာသနာပိုင်ဆရာတော်ကြီးဦးဧယျထံ၌ ပညာသင်ယူခဲ့၏။ သက္ကရာဇ်–၁၂၁၁(အေဒီ–၁၈၅၉) ခုနှစ်၌ စစ်ကိုင်းမြို့သို့ပြန်ကြွလာပြီး စစ်ကိုင်းမြို့၊ အစေခံရပ် ဦးရွှေအောင်၊ ဒေါ်လှော်တို့

---

*၁ လယ်တီဆရာတော်ကြီး၏သင်္ဂြိုဟ်မဟာဋီကာသစ်ပါဠိ။ ၁၂၆၉–ခုနှစ်။ (စာမျက်နှာ–၂၂၃)၊ အရှင်ကေလာသ၏ သင်္ဂြိုဟ်မဟာဋီကာသစ်မြန်မာပြန်၊ ဒုတိယတွဲ။ (စာမျက်နှာ–၁၇၃)။ လယ်တီပဏ္ဍိတဦးမောင်မောင်ကြီး၏ ပရမတ္ထသံခိပ်ဋီကာ၊ ဒုတိယတွဲ။ ဗုဒ္ဓသာသနာအဖွဲ့၊ ရန်ကုန်မြို့။ ၁၉၆၆–ခုနှစ်။ (စာမျက်နှာ–၁၀၆)။ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးက သုရာပါနအကုသိုလ်သည် ကမ္မပထမြောက်၊မမြောက် ပဋိသန္ဓေအကျိုးပေး၊မပေးကို ကျမ်းဂန်အယူအဆအရ နီးနှော ရေးသားပြောဆိုတော် မူခဲ့သော်လည်း နောင်အခါ၌ မြန်မာနိုင်ငံတစ်နိုင်ငံလုံးသို့လှည့်လည်တော်မူကာ အရက်သေစာ မသောက်စားကြဖို့ရန် အလှူခံတော်မူခဲ့သောကြောင့် တစ်နိုင်ငံလုံးအနှံ့ လယ်တီဆရာတော်ဘုရားကြီး၏ဆုံးမမှုကြောင့် အရက်သောက်စားသူများ နည်းပါးပပျောက်ခဲ့ရဖူးလေသည်။

*၂ ဦးတင်အုန်း(ရွှေသွေး)၏ ယောအတွင်းဝန်ဦးဘိုးလှိုင်အတ္ထုပ္ပတ္တိ။ ၁၉၆၀–ပြည့်နှစ်။ (စာမျက်နှာ–၁၃၀)။

ဆောက်လုပ်သော ညောင်ပင်သာကျောင်း၌သီတင်းသုံးကာ စာပေပရိယတ်ပို့ချပြီး စာပေပျို့လင်္ကာနှင့် ဆေးကျမ်းခတ်ကျမ်းများကို ရေးသားနေခဲ့၏။ ဦးပုည၏ကျောင်းသည် ညောင်ပင်ကြီးများအကြား အလွန်လှပသောမြေအပြင်တွင်ဆောက်လုပ်ထားသောကြောင့် ညောင်ပင်သာကျောင်းဟု ခေါ်တွင်ကုန်၏။ ဦးပုညကိုလည်း ထိုကျောင်းနေရာကိုအစွဲပြု၍ ညောင်ပင်သာဦးပုညဟူ၍ ခေါ်ဝေါ်ကြကုန်၏။*[၁]

ဖန်းမော်ချောင်ရဟန်းခံပွဲ

အရှင်ဉာဏသည် သက္ကရာဇ် ၁၂၃၃–ခုနှစ်၊ ပြာသိုလ (အေဒီ ၁၈၇၁–ခုနှစ်၊ ဒီဇင်ဘာလ)တွင် စစ်ကိုင်းတောင်ရိုး ဖန်းမော်ချောင်သို့ ရဟန်းခံပွဲတစ်ခုရှိ၍ကြွတော်မူပါသည်။ စစ်ကိုင်းတောင်ရိုးသည် အရညဝါသီတောရမှီသော သူတော်စင်ပုဂ္ဂိုလ်မြတ်များသီတင်းသုံးတော်မူသော သာသနာ့နယ်မြေကြီးဖြစ်လေသည်။ စစ်ကိုင်းတောင်ရိုးသည် ရှေးအစဉ်ကပင် အိမ်ရာတည်ထောင်သော လူတို့၏နေရာမဟုတ်ဘဲ ရသေ့ရဟန်းတို့မှီခိုနေထိုင်ရာဖြစ်ကြောင်း ဇောတင်ဘီလာပုဂ္ဂိုလ်ကျော် ရေးသားခဲ့သော စစ်ကိုင်းတောင်ညွှန်းကျမ်း၌ပြဆိုထားသည်။ ထိုတောင်ညွှန်းကျမ်းမှာပင် စစ်ကိုင်းတောင်ရိုး၌ ဘုရားရှင်တို့၏သာသနာပအခါ ရသေ့ယောဂီတို့နေထိုင်ကြပြီး၊ သာသနာထွန်းကားသောအခါများ၌ ရဟန်းသာမဏေ, သီတင်းသည်, ဥပါသကာ, ဥပါသိကာတို့ ဗုဒ္ဓဘာသာသာသနာတော်အကျင့်တရားများကို ကျင့်ကြံအားထုတ်နေထိုင်ကြသည်ဟုလည်း ဖော်ပြထားလေသည်။*[၂]

ထိုဖန်းမော်ချောင်ရဟန်းခံပွဲတွင် ပဉ္စင်းလောင်းမှာ စစ်ကိုင်းတောင်ရိုး ဓမ္မိကချောင်၌သီတင်းသုံးတော်မူနေသော ပထမထွင့်ခေါင်ဆရာတော်ဘုရားကြီး၏တပည့်ဖြစ်သည်။ ထွင့်ခေါင်ဆရာတော်ကြီး၏ တပည့်ပဉ္စင်းလောင်းကို ဖန်းမော်ဆရာတော်ကြီးနှင့် သင်္ဂဇာဆရာတော်ကြီးတို့က ကြီးကြပ်၍ ရဟန်းခံပေးတော်မူကြခြင်းဖြစ်သည်။

အစဉ်အလာအားဖြင့် ဥပသမ္ပဒကံကိုဆောင်ကြရာတွင် ရှေးဦးစွာ ရဟန်းလောင်းကို ဥပဇ္ဈာယ်ယူစေရပါသည်။ ဤရဟန်းခံပွဲ၌ ပဉ္စင်းလောင်း၏ဥပဇ္ဈာယ်ဖြစ်တော်မူသော ထွင့်ခေါင်ဆရာတော်ဘုရားကြီးသည် ရဟန်းခံပွဲသို့ကြွမလာနိုင်သောကြောင့် ရဟန်းလောင်းကို ထွင့်ခေါင်ဆရာတော်ကြီးထံသို့သွား၍ ဥပဇ္ဈာယ်ယူစေပြီးမှ ဖန်းမော်တိုက်အတွင်းရှိ ခဏ္ဍသိမ်၌ ဥပသမ္ပဒကံကိုဆောင်ရွက်တော်မူကြခြင်းဖြစ်သည်။ ဤနေရာတွင် ပစ္စယာနုဂ္ဂဟ, ဓမ္မာနုဂ္ဂဟတို့နှင့် ချီးမြှောက်ထောက်ပံ့မည့်သူဥပဇ္ဈာယ်ဆရာသည် ထိုသိမ်အတွင်းမှာမပါမူ၍ အနီးအဝေးမှာပင်ရှိသော်လည်း အနုပဇ္ဈာယကဟုမဆိုရပြီ၊ သဥပဇ္ဈာယကရဟန်းလောင်းဖြစ်ပေပြီဟု ဝိနည်းပိဋက၊ မဟာဝါပါဠိတော်၊ မဟာခန္ဓကအဋ္ဌကထာပါဠိလာ အဓိပ္ပာယ်နှင့်ညီညွတ်၏။ ထို့ပြင် ဥပဇ္ဈာယ်

---

*[၁] မောင်သုတ၏စာဆိုတော်များအတ္ထုပ္ပတ္တိ။ ရာပြည့်စာအုပ်တိုက်၊ ရန်ကုန်မြို့။ ၂၀၀၂–ခုနှစ်။ (စာမျက်နှာ–၂၅၅)။

*[၂] ပထမမစိုးရိမ်ဆရာတော်အရှင်သောမာဘိသိရီ၏ စစ်ကိုင်းတောင်ရိုးအဋ္ဌုပ္ပတ်စာတမ်း။ ၁၂၈၇–ခုနှစ်။ (စာမျက်နှာ–၂)။

ဆရာသည် ရဟန်းခံရာသိမ်အတွင်း၌မပါစေကာမူ သိမ်ပ,တိုက်ပအဝေးအနီး၌တည်နေသော ကြောင့် ကမ္မဝါဆိုရာတွင် ကာရကသံဃာတို့အား အာပတ်သင့်ဖွယ်မရှိပြီ။

အရှင်ဉာဏသည် ထိုရဟန်းခံပွဲ၌ မိမိမျက်မြင်တွေ့ကြုံမှတ်သားခွင့်ရခဲ့သောဥပဇ္ဈာယ်ယူပုံ အကြောင်းနှင့်စပ်၍ မှတ်သားထားတော်မူသည်ကို–

'ဒိဠာနုဂတိမှာ သက္ကရာဇ် ၁၂၃၃–ခုနှစ်၊ တပို့တွဲလတွင် စစ်ကိုင်းချောင် ဇန်းမော်ဆရာတော်ကြီးတိုက်မှာ ထွင့်ခေါင်ဆရာတော်ကြီးတပည့် ရဟန်းလောင်းကို ဇန်းမော်ဆရာတော်ကြီးနှင့် သင်္ဂဇာဆရာတော်ကြီးတို့ကြီးကြပ်၍ ဥပသမ္ပဒကံ ရွက်ဆောင်တော်မူကြစဉ် ထွင့်ခေါင်ဆရာတော်ကြီး မကြွလာနိုင်ရှိသည်နှင့် ရဟန်း လောင်းကိုစေလွှတ်၍ ထွင့်ခေါင်ဆရာတော်ကြီးထံမှာ ဥပဇ္ဈာယ်ယူစေ၍ ပြန်ရောက်မှ ဇန်းမော်တိုက်အတွင်းရှိ ခဏ္ဍသိမ်မှာ ဥပသမ္ပဒကံကို ရွက်ဆောင်တော်မူကြသည်။ ရဟန်းလောင်းမည်သည် သံဃာ့ဟတ္ထပါသ်အတွင်းမှာရှိနေမှသာ ကံမြောက်သည်။ ဥပဇ္ဈာယ်ဆရာသည်ကား သံဃာ့ဟတ္ထပါသ်အတွင်းမှာ ရှိမနေစေကာမူ ကံမြောက် သည်' *၁ ဟူ၍ဖြစ်ပါသည်။

**သတ္တမမြောက်ဝါဆိုတော်မူခြင်း**

၁၂၃၄–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၇၂–ခုနှစ်၊ ဇူလိုင်လ)၌ အရှင်ဉာဏသည် မန္တလေးမြို့ မြောက်ပြင်စံကျောင်းတိုက်ကြီးမှာပင် သတ္တမမြောက်ဝါကို ကပ်ဆိုတော်မူခဲ့ပါသည်။ ထိုအချိန်၌ ယောမင်းကြီးဦးဘိုးလှိုင်သည် အချုပ်မှလွတ်၍ မန္တလေးရွှေမြို့တော်သို့ ပြန်လည်ရောက်ရှိနေ ပေပြီ။ ယောမင်းကြီးသည် အရာမကျမီက ကနောင်မင်းသားကြီးနှင့်အတူ စက်ရုံပေါင်း ၅၀– ကျော်ကိုတည်ထောင်အုပ်ချုပ်ခဲ့ရပြီး၊ အရာကျနေစဉ် ထိုစက်ရုံတို့ကို မကွေးရာမင်းသားကြီးက လွှဲယူအုပ်ချုပ်ခဲ့သဖြင့် ယောမင်းကြီးမှာ မင်းမှုတာဝန်နည်းပါးနေသည်။ မိမိလေ့လာကြည့်ရှုလိုသော စာပေတို့ကို စိတ်ရှိတိုင်းကြည့်ရှုနိုင်သည်။ ထို့ပြင် ရေးသားလိုသောကျမ်းဂန်စာပေတို့ကိုလည်း လွတ်လပ်စွာရေးသားခွင့်ရခဲ့လေသည်။ ဤသို့ ယောမင်းကြီး စာပေလုပ်ငန်းကို တွင်တွင် ကျယ်ကျယ်လုပ်ခွင့်ရလေလေ ယောမင်းကြီးထံ၌ စာပေနည်းခံနေတော်မူသော အရှင်ဉာဏ အဖို့မှာလည်း ယောမင်းကြီးထံမှစာပေဗဟုသုတအမျိုးမျိုးကို လေ့လာလိုက်စားနိုင်တော်မူ၍ များစွာအကျိုးရှိခဲ့သည်။

**ယောမင်းကြီး၏ ဝိမုတ္တိရသကျမ်း**

ယောမင်းကြီးသည် အရက်သောက်ခြင်းအယူအဆအတွက် အရာကျခဲ့သည်ဖြစ်၍ နောက် နောင် ထိုသို့ပြဿနာမဖြစ်ရလေအောင်ဟု မိမိရေးသောကျမ်းဂန်တို့ကို ဆရာတော်တစ်ပါးပါးထံ

*၁ လယ်တီဆရာတော်၏ ကမ္မဝါဒီပနီ။ ပတ္တမြားပဒေသာစာပေတိုက်၊ ရန်ကုန်မြို့။ ၁၃၃၅–ခုနှစ်။ (စာမျက်နှာ–၁)။ လယ်တီ ဆရာတော်ကြီး၏ ဥပဇ္ဈာယဂဟဏဝိနိစ္ဆယ။ သာသနဝိသောဓနီကျမ်း၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၄၃)။

ပြသလျှင် သင့်လျော်မည်ဟုနှလုံးသွင်းမိသောကြောင့် မိမိအရာကျစဉ်ကရေးထားခဲ့သော ဝိမုတ္တိရသ ကျမ်းကို ပထမရွှေကျင်ဆရာတော်ဘုရားကြီးထံသို့ ကြည့်ရှုပြင်ဆင်တော်မူပါဟု ဆက်ကပ်ခဲ့ လေ၏။

အာဇီဝဋ္ဌမကသီလအယူအဆပြဿနာ

မဟာဝိသုဒ္ဓါရုံဆရာတော်အရှင်ဝိသုဒ္ဓါစာရသည် ယောမင်းကြီး၏ဝိမုတ္တိရသကျမ်းကို သေချာ ကျနစွာကြည့်ရှုပြီးသောအခါ ကျမ်းတစ်နေရာ၌ အာဇီဝဋ္ဌမကသီလနှင့်စပ်၍ 'လူတို့၌ကား အခြားသီလထက် ဤအာဇီဝဋ္ဌမကသီလသည် မဂ္ဂင်နှင့်ညီသည်'[*၁] ဟူသောအရေးအသားကို တွေ့မြင်လတ်သော် ဤအချက်သည်ကား သာသနာ့ရန်ဆူးရန်ငြောင့်, သာသနာ့ဘေးရန်ဟု တွေ့မြင်တော်မူသောကြောင့် ယောမင်းကြီးတည်းဟူသော ကြီးမားသောဂုဏ်ထူးဝိသေသ ဩဇာတိက္ကမကို မငဲ့ကွက်မထောက်ညှာဘဲ ရဲဝံ့စွာရှင်းလင်းသုတ်သင်သောအားဖြင့် ယင်းပေစာကို ထိုးဖောက်ပြင်ဆင်တော်မူခဲ့ပါသည်။ ဤသို့ အာဇီဝဋ္ဌမကသီလနှင့်စပ်၍ မဟာဝိသုဒ္ဓါရုံဆရာတော် ကြီးသည် မိမိ၏အယူအဆကို နောင်အခါ ဆိဒ္ဓပိဓါနနီကျမ်း၌ အောက်ပါအတိုင်းထုတ်ဖော်တော် မူခဲ့ပါသည်။[*၂]

> ယခုကာလလည်း ရွှေပြည်ဝန်မြစ်ကွေးမြို့စား အတ်ကျောင်းကြီးဒါယကာ ယောမင်းကြီးရေးထုတ်သော ဝိမုတ္တိရသစာအုပ်၌ လူတို့နှင့်စပ်ဆိုင်သောငါးပါးသီလ, ရှစ်ပါးသီလ, ဆယ်ပါးသီလတို့ထက် ဤအာဇီဝဋ္ဌမကသီလသည် မဂ္ဂင်သုံးပါးနှင့် တိုက်ဆိုင်မိသည်xxx များများကြီးမြှောက်ပင့်၍ မြင့်မြင့်ကြီး ရင့်ရင့်ကြီး အထက် သံနှင့်ရေးသားသောစကားကိုတွေ့မြင်သည်နှင့် ဤအချက်သည် ပွက်ပွက်ဆူပွ ငြင်းခုန်ရမည့်အချက်တည်းဟု နှလုံးပြု၍လည်းကောင်း၊ ကျမ်းပြုဆရာယောမင်းကြီးကို နိုင်ငံအနှံ့ဖောက်ထွင်းသောပညာရှိမင်းဟု မှတ်ထင်ခြင်းရှိ၍ ယောမင်းကြီးစကားကိုယူ၍ ပြောဆိုရလျှင် ကျရှုံးမှားယွင်းခြင်းမရှိနိုင်ရာဟု စိတ်ချသည်ဖြစ်၍လည်းကောင်း၊ အဆန်းအပြားအကျော်အစောကိုကြိုက်တတ်သောသူတို့က ဆူဆူညံညံ နိုက်ရန် ဖြစ်ပွားစကားများစေလို၍ ဝိမုတ္တိရသစာအုပ်၏သဘောအဓိပ္ပာယ်ကိုမမြင် ရှေ့နောက် ကိုလည်း မဆင်ခြင်မထောက်၊ ဝိမုတ္တိရသစာအုပ်အဆိုတွင်ရွှေ့မက အာဇီဝဋ္ဌမက သီလမှသာ မဂ်ဖိုလ်နိဗ္ဗာန်ရကြောင်းသီလမှန်သည်။ ငါးပါးသီလ,ရှစ်ပါးသီလစသည် တို့ကား မဂ်ဖိုလ်နိဗ္ဗာန်ရောက်ကြောင်း သီလမဟုတ်ဟူ၍လည်းကောင်း အလွန်မလိမ္မာ ပညာမဲ့လှသောသူအချို့တို့က ငါးပါးသီလကို မိစ္ဆာဒိဋ္ဌိတို့စောင့်သောသီလဟူ၍ပင် လည်းကောင်း ပြောဆိုငြင်းခုန် ဝိဝါဒဖြစ်ကြသည်များကို ကြားသိရလေသည်- ဟူ၍လည်းကောင်း၊

---

*၁ ယောမင်းကြီးဦးဘိုးလှိုင်၏ ဝိမုတ္တိရသကျမ်း။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၃-ခုနှစ်။ (စာမျက်နှာ-၃၃)။

*၂ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ ဆိဒ္ဓပိဓာနနီကျမ်း။ ၁၃၂၃-ခုနှစ်။ (စာမျက်နှာ-၃၉၁)။

ဝိမုတ္တိရသစာအုပ်၌ အာဇီဝဋ္ဌမကသီလကိုမြှောက်ပင့်၍ ကွင်းသောဒါန, သီလတို့ကို စဉ်းငယ်နှိမ်၍ရေးသားသောစကားတို့ကိုအမှီပြု၍ ကြည့်ရှုလေ့လာ သဒ္ဓါပါးနဲပစ္စည်းမွဲတန် မိစ္ဆာဆန်သောသူတို့က ဒါနကိုပြုလျှင် သံသရာရှည်လျားသည်၊ ငါးပါးသီလ,ရှစ်ပါးသီလသည် မဂ်ဖိုလ်ရကြောင်းသီလမဟုတ်ဟုပြောဆို၍ ဉပုသ်စောင့်သူ, အလှူပေးသူများပင် အားနည်းဘို့ရာ သာသနာတော်၏ဘေးရန် သဂ္ဂန္တရာယ် မဂ္ဂန္တရာယ်ဖြစ်ဖွယ်ရှိ၍ ဝိမုတ္တိရသစကားဆိုချက်ကို ပယ်ဖျက်လိုသောကြောင့်လည်းကောင်း၊ ဝိမုတ္တိရသကျမ်းဆရာ၌ ဟုတ်မှန်သမ္ဗုဂုဏ်ကျေးဇူးများကို ထင်ရှားကြားဖူးသိမြင်ရာ အတော်သင့်ချီးမြှင့်ဖော်ပြလိုက်ပေသည်–ဟူ၍လည်းကောင်း၊

ပေးလှူမရဲ သဒ္ဓါမွဲသောသူ၊ ဉပုသ်သီတင်း စောင့်သုံးပျင်းသောသူ၊ မိစ္ဆာဆံဆံတာတေလံလူညံ့ ပဋ္ဌင်းနန့်ရဟန်းကြွားတို့ကို အားပေးထောက်မ လမ်းညွှန်ပြ၍ ငရဲသို့တွန်းချရာရောက်၏။ မိမိကပညာရှိဟု နိုင်ငံသိအနှံ့အပြား ထင်ရှားကျော်စောဂုဏ်အသရေရှိသောသူဖြစ်၍ မိမိရေးသားသောကျမ်းကို ယုံကြည်စွာကြည့်ရှုသောပညာသမာဓိနှသူ လူ,ရှင်ရဟန်းကြွတို့ စကားဆန်းကြိုက်ကြ၍ စာအုပ်အဆိုပါစကားကို ကြွားကြွားပိုမို သာသနာကိုပုတ်ခတ်ပြောဆိုကြရာ နိသမ္ဘကာရီ ဉာဏ်မီထောက်လှမ်း ကျမ်းဂန်သိကျွမ်းသည့် စုံစမ်းဆင်ခြင်တတ်သော သဘောပဋိဘာန်ဉာဏ်ပညာရှိသသူတို့ကြားသဖြင့် နားမချမ်းသာလှ၍ ခုခံပြောဆိုကြလျှင် ဝိဝါဒစစ်ခိုက်ရန်ဖြစ်၍ ပလင်းပစ်, တုတ်ရိုက် အရပ်ရပ်မိုက်သမျှသည် ဝိမုတ္တိရသတိုက်ခဲ့သောရန်စစ်သာဖြစ်လေသည်။ ကျမ်းဆရာက ရန်တိုက်လိုသော စိတ်ယုတ်မာမရှိသော်လည်း အမှားကိုဆိုဘိရကား ရန်တိုက်ရာကျလေသည်'ဟူ၍လည်းကောင်း ရေးသားတော်မူခဲ့ပါသည်။*၁

အရှင်ဉာဏသည် ယောင်မင်းကြီးဦးဘိုးလှိုင်နှင့်ခင်မင်ကျွမ်းဝင်သကဲ့သို့ မဟာဝိသုဒ္ဓါရုံဆရာတော်အရှင်ဝိသုဒ္ဓါစာရကိုလည်း အားကိုးတိုင်ပင်ရာနောင်တော်ကြီးသဖွယ် ချစ်ခင်လေးမြတ်တော်မူခဲ့ပါသည်။ မိမိသီတင်းသုံးရာ စံကျောင်းနှင့်မဝေးလှသည်ဖြစ်၍ အရှင်ဉာဏသည် ထိုရွှေကျောင်းတိုက်မသို့ရောက်တော်မူမည်သာဖြစ်၏။ ဤသို့ ယောမင်းကြီးနှင့် အရှင်ဝိသုဒ္ဓါစာရတို့ မိမိတို့၏ အာဇီဝဋ္ဌမကသီလအယူအဆကို ပကတိရိုးရိုးသားသားတင်ပြကြရာတွင် အရှင်ဉာဏအဖို့မှာ ထိုပညာကျော်ကြီးများအယူအဆတင်ပြပွဲ၌ ကြားမှနေ၍ များစွာမှတ်သားခွင့်ရတော်မူခဲ့ပါသည်။

*၁ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ ဆိဒ္ဓပိဓာနနီကျမ်း။ ၁၃၂၃–ခုနှစ်။ (စာမျက်နှာ ၃၉၁–၄၀၂)။ ဝိမုတ္တိရသကျမ်းဝေဖန်ချက်ပါသော ဆိဒ္ဓပိဓာနနီကျမ်းကို မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးသည် ၁၂၆၄–ခုနှစ်၌ ရေးသားပြီးစီးသည်ဖြစ်၍ ထိုအချိန်၌ ယောမင်းကြီးအသက်ထင်ရှားမရှိတော့ပြီ။ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးသည် ဝိမုတ္တိရသကျမ်းကို ရွှေကျင်ဆရာတော်ကြီးထံမှ ရှေးဦးစွာဖတ်ရှုစဉ်အခါကလည်း ဆိဒ္ဓပိဓာနနီကျမ်း၌ရေးသားထားသည့်အတိုင်း ဝေဖန်ခဲ့မည်သာဖြစ်သည်။ ဝိမုတ္တိရသကျမ်းကိုဝေဖန်ရေးသားသည့်အတွက် ယောမင်းကြီး၏ သက်ရှိထင်ရှားဖြစ်ကြသောအဆက်အနွယ်တို့က မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးအပေါ် မကျေမနပ်ဖြစ်ကာ တရားဘောင်ဖြစ်လုမတတ် အချင်းများကြသည်ဟု ရေးသားချက်များရှိ၏။ ဉးမာနိတသိရီနှင့် ဉးနန္ဒမာလာဘိဝံသတို့၏ စံကင်းဂုရုပ္ပတ္တိကထာ။ ဒေါ်လှခင်နှင့်သားများပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၇၂–ခုနှစ်။ (စာမျက်နှာ–၁၈၀)။ ယောမင်းကြီးဦးဘိုးလှိုင်၏ ရာဇဓမ္မသင်္ဂဟကျမ်း။ ၁၉၇၂–ခုနှစ်။ (စာမျက်နှာ–၆၄)။

# လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်

## [တတိယပိုင်း]

## စာချဘုန်းကြီးဘဝ

## (သက္ကရာဇ် ၁၂၃၅–သက္ကရာဇ် ၁၂၄၄)[*၁]

**အဋ္ဌမမြောက်ဝါကပ်ဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၃၅–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၇၃–ခုနှစ်၊ ဇူလိုင်လ) တွင် အရှင်ဉာဏသည် မြောက်ပြင်စံကျောင်းတိုက်ကြီးမှာပင် အဋ္ဌမမြောက်ဝါကို ကပ်ဆိုတော်မူပါသည်။

စံကျောင်းတိုက်ကြီးသို့ အရှင်ဉာဏရောက်ရှိတော်မူခဲ့သည်မှာ ခုနစ်ဝါပြည့်ခဲ့ပြီးလျှင်၊ စံကျောင်းဆရာတော်ကြီးဦးသုဒဿနထံတော်၌ ဝိနည်းပါဠိတော်ကို အဋ္ဌကထာနှင့်တကွ သင်ယူတော်မူခဲ့သည်မှာလည်း ဝိနည်းမိုရ်ဟုခေါ်ဆိုလောက်အောင် နိုင်နင်းတတ်မြောက်ခဲ့လေပြီ။ ထို့ပြင် မကုဋာရာမဆရာတော်ကြီးလောင်းလျာဦးခေမိန္ဒ၊ စလင်းဆရာတော်ဦးပဏ္ဍိစ္စနှင့် မိုင်းခိုင်းဆရာတော်လောင်းလျာဦးပဏ္ဍိတ–စသော စာချအကျော်ဆရာတော်တို့ထံတွင်လည်း စာဝါများသင်ယူတော်မူခဲ့ရာ အာစရိယဟတ္ထမှ၌ ဆရာ့နည်းလက်ဆုပ်ရလျက် ပညာရည်ပြည့်စုံကုံလုံသောအခြေသို့ရောက်တော်မူခဲ့သည်။ ဗဟုသုတအရာမှာလည်း ပိဋကတ်တော်အုပ်ဦးယမ်ထံမှ ဂန္ထန္တရစသောကျမ်းဂန်စာပေများကို လေ့လာခွင့်ရခဲ့ပြီး၊[*၂] ယောမင်းကြီးနှင့်နီးစပ်ကျွမ်းဝင်မှုကြောင့် ဘာသန္တရဗဟုသုတနှင့် ခေတ်အသိခေတ်အမြင်ဆိုင်ရာ၌ ပွန်းတီးချေင် နားလည်ပြီးလျှင် ကျမ်းစာလေ့လာနည်း၊ ဝေဖန်သုံးသပ်နည်း၊ ပြုစုရေးသားနည်းများကိုလည်း ရေးနိုင်စွမ်းနိုင်ပြီဖြစ်သည်။

**စံကျောင်းတိုက်စာချဘုန်းကြီး**

စံကျောင်းတိုက်ကြီးအတွင်း၌ အရှင်ဉာဏ၏စာပေဗဟုသုတပြည့်စုံကုံလုံ ကြွယ်ဝလှသည်ဟူသော သတင်းကျော်ကြားသောကြောင့် ထိုရှစ်ဝါမြောက်ဝါကပ်သောအခါ၌ စံကျောင်းဆရာတော်ကြီးဦးသုဒဿနက တိုက်သံဃာပရိသတ်တို့အလယ်မှာပင် 'ယနေ့မှစ၍ စလင်းဘုန်းကြီးတပည့်မောင်ဉာဏကို

---

*၁ အေဒီ ၁၈၇၄–ခုနှစ်၊ ဧပြီလမှ အေဒီ ၁၈၈၂–ခုနှစ်၊ ဧပြီလအထိဖြစ်သည်။

*၂ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၂၂)။ ညီညီစိုး၏ လယ်တီဆရာတော်ကြီး၏ ဘဝနှင့်စာပေ။ လက်နှိပ်စက်မူ။ ၁၉၈၁–ခုနှစ်။ (စာမျက်နှာ–၇)။

စံကျောင်းတိုက်စာချဂဏာဝါစကအဖြစ်ခန့်လိုက်ပြီ'ဟု အမိန့်ရှိတော်မူလေသည်။[*၁] စံကျောင်းဆရာတော်ကြီးသည် အရှင်ဉာဏအား စာချဘုန်းကြီးအဖြစ်ခန့်တော်မူပြီးနောက် စံကျောင်းတိုက်၏မြောက်ဘက်ရှိ ကျောင်းရုံငယ်တစ်ကျောင်းကို နေထိုင်ရန်ချီးမြှောက်တော်မူပါသည်။[*၂] လစဉ်ဆန်တစ်တင်းနှင့် ငါးပိ, ဆီ, ဆား, ငရုတ်, ကြက်သွန်အစုံ အထောက်အပံ့ပေးတော်မူပါသည်။[*၃] ထို့ပြင် 'ဤစံကျောင်းတိုက်အတွင်းရှိပိဋကတ်စာပေတို့ကိုမငြိုမငြင်အစစ်အဆေးမရှိ အလိုရှိသလိုထုတ်ယူကြည့်ရှုစေ'ဟူသောအခွင့်အရေးတစ်ရပ်ကိုလည်း ချီးမြှင့်တော်မူပါသည်။[*၄]

ထိုသို့ စံကျောင်းတိုက်ကြီး၏တိုက်စာချခေါ် ဂဏာဝါစကဖြစ်တော်မူသည့်နေ့မှစ၍ အရှင်ဉာဏသည် စလင်းဆရာတော်၏ကျောင်းမှ စံကျောင်းတိုက်၏မြောက်ဘက် ခရေပင်အုတ်အကြား၌ဆောက်လုပ်ထားသော ကျောင်းရုံကလေးသို့ ရွှေ့ပြောင်းနေထိုင်ခဲ့ရသည်။ ထိုကျောင်းကလေးကို 'ခရေပင်ကျောင်း'ဟုခေါ်တွင်ခဲ့ပါသည်။ ခရေပင်ကျောင်း၌ အရှင်ဉာဏနှင့်အတူ ခင်မွန်ရွာဇာတိအရှင်ကေတုမာလာ၊ အလုံဇာတိအရှင်ဉာဏဝံသ စသောတပည့်များ နေထိုင်သီတင်းသုံးခဲ့ကြသည်။

စာပေကြည့်ရှုခြင်း၌အလွန်အလေ့ဝါသနာကြီးမားလှသော အရှင်ဉာဏအဖို့ ကျောင်းကန်, ဆန်, ဆီ, ဆားတည်းဟူသော အာမိသပစ္စည်းတို့ကိုရရှိခြင်းထက် ပိဋကတ်စာပေအရပ်ရပ်ကို အပိတ်အပင်အတားအဆီးမရှိ ကြည့်ရှုခွင့်ရလိုက်သည်ကိုသာ အလွန်ရခဲသောဆုထူးကြီးအဖြစ် ဝမ်းမြောက်ဝမ်းသာဖြစ်ခဲ့သည်။ ထိုစဉ်အခါက မန္တလေးမြို့လေးပြင်လေးရပ်ရှိ ကျောင်းတွင်းကျောင်းပပိဋကတ်တိုက်များတွင် စာသင်သားများစာငှားရာ၌ ပေထုပ်ဖြစ်သည့်အတွက် ပေတစ်ထုပ်လုံးကိုငှားရမ်းထုတ်ယူခွင့်မပြုဘဲ တစ်ကြိမ်ငှားလျှင် ပေတစ်အင်္ဂါခေါ် ပေ ၁၂-ချပ်ကိုသာ စာရင်းမှတ်၍ငှားလေသည်။ ပေတစ်အင်္ဂါကြည့်ပြီးမှ နောက်ထပ်တစ်အင်္ဂါကို ငှားရမ်းထုတ်ယူခွင့်ပြုသည်။ ထေရ်ကြီးဝါကြီးဆရာတော်ကြီးများနှင့် စာချဘုန်းကြီးများကိုမူ စာရင်းမမှတ်ဘဲ ပေအထုပ်လိုက် တစ်ကျမ်းလုံးငှားရမ်းသောအလေ့ရှိပါသည်။

မှတ်သားဖူးသည်မှာ ရွှေကျင်ငါးတိုက်မှ စုဖုရားလတ်မိဖုရားကြီးကိုးကွယ်သော မြတောင်ဆရာတော်ကြီးသည် ခင်မကန်တိုက်သို့ပေစာငှားကြွရာ သံဃာတန်း၌ဝင်၍တန်းစီပြီး အခြားသံဃာများနည်းတူ စာရင်းပေး၍ငှားယူတော်မူခဲ့ပါသည်။ ပေစာထုတ်ပေးသောရဟန်းကလည်း

---

[*၁] ညိုညိုစိုး၏ လယ်တီဆရာတော်ကြီး၏ဘဝနှင့်စာပေ။ လက်နှိပ်စက်မူ။ ၁၉၈၁-ခုနှစ်။ (စာမျက်နှာ-၇)။ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)က 'လယ်တီဆရာတော်ကြီး ရှစ်ဝါအရတွင် တိုက်၏စာချမဟုတ်ဘဲ ဘုရင့်ဆွမ်းအထောက်အပံ့ရ ပထမစာချဖြစ်ကြောင်း' ဖော်ပြထားသည်။ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၂၂)။

[*၂] ထိုကျောင်းကို 'ခရေပင်ကျောင်း'ဟုခေါ်တွင်ခဲ့သည်။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ပုဂ္ဂိုလ်ကျော်များ။ (စာမျက်နှာ-၇၀)။

[*၃] လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၂၂)။

[*၄] လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၂၅)။



မြောက်ပြင်စံကျောင်းကြီးအတွင်း
လယ်တီဆရာတော်လောင်းလျာအရှင်ဉာဏ သီတင်းသုံးရာခရေပင်ကျောင်းနေရာ





ပထမစံကျောင်းဆရာတော်ကြီး၏ အရိုးအိုးဌာပနာထားသော အုတ်ပြာသာဒ်နှင့်အတွင်းစေတီ

မြတောင်ဆရာတော်ကြီးမှန်းမသိ။ မြတောင်ဆရာတော်ကြီး ဤသို့ သံဃာတန်း၌ဝင်ရောက်တန်းစီပြီး ပေစာထုတ်ယူနေသည်ကို ခင်မကန်တိုက်အုပ်ဘုန်းကြီးတွေ့သွားရာ မြတောင်ဆရာတော်ကြီးအား မထေရ်ကြီးများသီတင်းသုံးရာ ထေရာသနနေရာသို့ပင့်ဆောင်သီတင်းသုံးတော်မူစေပြီး အလိုရှိရာကျမ်းစာပေစာတို့ကို စာရင်းမမှတ်ဘဲထုတ်ယူတော်မူနိုင်ရန် စီစဉ်ပေးခဲ့ကြောင်းပင်ဖြစ်သည်။*[၁]

## သီဟိုဠ်စာသင်သားများနှင့်ဆွေးနွေးခြင်း

မြန်မာနိုင်ငံသမိုင်းတွင် မင်းတုန်းမင်းကြီးလက်ထက် သာသနာထွန်းလင်းသည်မှာ ရှေးမင်းများလက်ထက်ကထက်သာလွန်ကြောင်း*[၂] ပညာရှင်တို့သုံးသပ်ကြသည့်အတိုင်း မင်းတုန်းမင်းလက်ထက်တော်၌ သာသနာထွန်းလင်းသည်ဖြစ်၍ ရတနာပုံမန္တလေးရွှေမြို့တော်သို့ မြန်မာနိုင်ငံနေရာဌာနအနှံ့အပြားကသာမက သီရိလင်္ကာစသော ဝေးလံသောနိုင်ငံဌာနကပင် သံဃာတော်များသည် ပညာသင်ရန်၊ ဝိနိစ္ဆယအဆုံးအဖြတ်ခံယူရန်၊ သိက္ခာအသစ်ထပ်ရန် စသောအကြောင်းအမျိုးမျိုးဖြင့်လာရောက်ကြကြောင်း အထောက်အထားများတွေ့ရသည်။*[၃] ဤသို့ မြန်မာနိုင်ငံ ရတနာပုံမန္တလေးရွှေမြို့တော်သို့လာရောက်ကြသော သီဟိုဠ်မှစာသင်သားသံဃာအချို့သည် မဟာဇောတိကာရာမစံကျောင်းတိုက်၌ နေထိုင်သီတင်းသုံးကြလေသည်။

ထိုသီဟိုဠ်စာသင်သားများက မိမိတို့သီဟိုဠ်ကျွန်းက ပါဠိဘာသာဖြင့်ရေးသားပြုစုသောပါဠိကျမ်းဂန်များကို မြန်မာပြည်၌အသုံးဝင်နေပုံအကြောင်းကို အသံခပ်ထယ်ထယ်ဖြင့်ပြောဆိုကြ၏။ အလွန်စိတ်ဓာတ်ထက်မြက်သောအရှင်ဉာဏက သီဟိုဠ်စာသင်သားများ၏ပြောသံဆိုသံကို မကြိုက်သည့်အတွက် 'တပည့်တော်တို့ မြန်မာနိုင်ငံသား လူပညာရှိရဟန်းပညာရှိများသည်လည်း အရှင်ဘုရားတို့ သီဟိုဠ်သားပညာရှင်များကဲ့သို့ပင် ပါဠိကျမ်းဂန်စာပေတို့ကိုရေးသားနိုင်ကြောင်း' ပြောကြားခဲ့ပါသည်။

ထိုအခါ သီဟိုဠ်စာသင်သားတို့က 'အရှင်တို့မြန်မာနိုင်ငံက ပါဠိစာပေကျမ်းဂန်တွေကို ကိုယ်တိုင်ကိုယ်ကျရေးသားနိုင်သည်ဆိုလျှင် အဘယ့်ကြောင့် တပည့်တော်တို့သီဟိုဠ်က ရေးသားခဲ့သော ကစ္စည်းသဒ္ဒါကျမ်းကိုမပယ်စွန့်ကြဘဲ ယနေ့ထက်တိုင်အရေးထား၍ သုံးစွဲပို့ချသင်ယူနေကြသလဲ'ဟုမေးမြန်းကြပြန်၏။ အရှင်ဉာဏက 'ကစ္စည်းသဒ္ဒါကျမ်းမျိုးကို သီဟိုဠ်ကရေး၍သာ၊

---

*[၁] ဦးမာနိတသိရီနှင့် ဦးနန္ဒမာလာဘိဝံသတို့၏ စံကင်းဂုရုပ္ပတ္တိကထာ။ ၁၉၇၂–ခုနှစ်။ (စာမျက်နှာ–၇၉)။

*[၂] ဝင်းမောင်၏ မန္တလေးခေတ်ဗုဒ္ဓသာသနာဝင်။ မန္တလေးဝိဇ္ဇာနှင့်သိပ္ပံတက္ကသိုလ် သမိုင်းဌာနသို့ ၁၉၇၈–ခုနှစ်၌တင်သွင်းသော သမိုင်းမဟာဝိဇ္ဇာဘွဲ့ယူကျမ်း။ လက်နှိပ်စက်မူ။ (စာမျက်နှာ–၂)။ နိုင်ဝင်း၏ ကုန်းဘောင်ခေတ်နှောင်းဗုဒ္ဓသာသနာ။ မော်လမြိုင်တက္ကသိုလ် သမိုင်းဌာနသို့ ၁၉၉၈–ခုနှစ်၌တင်သွင်းသော သမိုင်းမဟာဝိဇ္ဇာဘွဲ့ယူကျမ်း။ လက်နှိပ်စက်မူ။ (စာမျက်နှာ–၂)။

*[၃] ကုန်းဘောင်ခေတ်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၂၆၃)။ နိုင်ဝင်း၏ ကုန်းဘောင်ခေတ်နှောင်းဗုဒ္ဓသာသနာ။ လ ်နှိပ်စက်မူ။ ၁၉၉၈–ခုနှစ်။ (စာမျက်နှာ–၁၁၁)။

မရေးသားခဲ့ပါမူက တပည့်တော်တို့ရေးသားမည်သာဖြစ်ကြောင်း' တုံ့ပြန်ဖြေကြားပြီး၊ 'နောင်အခါကစ္စည်းကျမ်းထက်သာသော သဒ္ဒါကျမ်းတစ်စောင်ကို တပည့်တော်ကိုယ်တိုင်ပင်ရေးပြနိုင်သည်' ဟု ပြောဆိုလျှောက်ထားခဲ့ပါသည်။

မြန်မာနိုင်ငံသည် သီဟိုဠ်ကျွန်းကရေးသားသော ကစ္စည်းသဒ္ဒါကြီးကို ရှေးအစဉ်အဆက်အသုံးပြုခဲ့ကြပါသည်မှာမှန်၏။ ဤသို့အသုံးပြုခြင်းမှာလည်း မြန်မာတို့က ပါဠိသဒ္ဒါကျမ်းမရေးသားနိုင်၍မဟုတ်ဘဲ*၁ ကစ္စည်းသဒ္ဒါကြီးသည် 'အက္ခရာနည်းပါး၊ ယုံမှားကင်းလစ်၊ အနှစ်သာရထွေ၊ စောဒကများ၊ မလှုပ်ရှားဖွယ်၊ ဂုဏ်ကွယ်ဖော်ငြား၊ ယုံမှားဘို့ကင်း'ဟူသော သုတ်အင်္ဂါခြောက်မျိုးနှင့်ပြည့်စုံခြင်း၊ သုတ်များနှင့်အထူးပြေပြစ်ခြင်း၊ ဗိနဝစနာနုရူပဖြစ်ခြင်း–စသောဂုဏ်တို့ကြောင့်ပါဝစနဗုဒ္ဓပိဋကတ်ကျမ်းမြတ်ကို ကူးခတ်သက်ဝင်စေနိုင်သည့် ကျမ်းမြတ်တစ်ဆူဖြစ်သောကြောင့်ပါဠိသဒ္ဒါ ပါဠိစာပေလောက၌ အသုံးများတွင်ကျယ်နေခြင်းဖြစ်သည်။*၂

သဒ္ဒါရေးနှင့်စပ်လျဉ်း၍ သာသနာလင်္ကာရစာတမ်းစသည့်ရှေးမှတ်တမ်းများအရ ပုဂံခေတ်ကပင် သီဟိုဠ်သားများက သဒ္ဒါရေးနှင့်ပတ်သက်၍ မြန်မာတို့ကိုနှိမ်စကားပြောဆိုခဲ့ကြကြောင်းအမှတ်အသားများရှိ၏။*၃ ပုဂံသားတို့က အရှင်အဂ္ဂဝံသ၏သဒ္ဒနီတိ ပါဠိသဒ္ဒါကျမ်းကြီးကိုထုတ်ဖော်ပြသလိုက်သောကြောင့် မြန်မာနိုင်ငံဘက်ကအနိုင်ရခဲ့ဖူးပါသည်။

သီဟိုဠ်စာသင်သားများသည် သဒ္ဒါရေးနှင့်စပ်၍ဆွေးနွေးရသည်ကို မကျေနပ်သေးဘဲအဘိဓမ္မာအရေးကို ဆက်၍ဆွေးနွေးကြပြန်သည်။ သီဟိုဠ်နိုင်ငံသည် အရှင်ဗုဒ္ဓဃောသ၊ အရှင်အာနန္ဒာ၊ အရှင်ဓမ္မပါလ အစရှိသောမထေရ်ကြီးများ၏ အဘိဓမ္မာပါဠိတော်အဖွင့်အဋ္ဌကထာ၊ မူလဋီကာ၊ အနုဋီကာနှင့် အကျဉ်းချုပ်သင်္ဂဟကျမ်းများပေါ်ထွန်းခဲ့သောနိုင်ငံဖြစ်ပါသည်။ ထိုကျမ်းကြီးများသည် သာသနာတော်၏ဆီမီးတန်ဆောင် အဘိဓမ္မာဆိုင်ရာ ရှေ့ဆောင်ကျမ်းကြီးများဖြစ်၏။ ထိုကျမ်းကြီးများကိုထား၍ အဘိဓမ္မာဆိုင်ရာကျမ်းတို့တွင် ကျမ်းပမာဏအသေးဆုံးဖြစ်သောအရှင်အနုရုဒ္ဓါဆရာပြုစုသော သင်္ဂြိုဟ်(အဘိဓမ္မတ္ထသင်္ဂဟ)ကျမ်းကလေးသည်ပင် အဘိဓမ္မာခုနစ်ကျမ်း၏အသည်းနှလုံး အနှစ်ချုပ်ကျမ်းဖြစ်ပြီး အဘိဓမ္မာကိုလိုက်စားကြသူရှင်လူတို့အတွက်လက်စွဲထားရသည့် အဖိုးတန်ကျမ်းငယ်တစ်ဆူဖြစ်ပါသည်။ ထိုသင်္ဂြိုဟ်ကျမ်းကို အရှင်ဉာဏအလွန်နှစ်သက်၏။ သင်္ဂြိုဟ်ကျမ်းတွင် အပိုင်းကိုးပိုင်းပါရှိရာ ရှေ့ခြောက်ပိုင်း(စိတ်ပိုင်း၊ စေတသိက်ပိုင်း၊ ပကိဏ်းပိုင်း၊ ဝီထိပိုင်း၊ ရုပ်ပိုင်းနှင့်ပစ္စည်းပိုင်း)သည် အဘိဓမ္မာပိဋကကို အကျဉ်းချုံးထားသော

---

*၁ မြန်မာနိုင်ငံ၌ ပုဂံခေတ်မှစ၍ ရတနာပုံမန္တလေးခေတ်တိုင်အောင် သဒ္ဒါကြီး၊ သဒ္ဒါငယ်၊ သဒ္ဒါအဆုံးအဖြတ်၊ သဒ္ဒါနိသျ–စသည်ဖြင့် မရေမတွက်နိုင်လောက်အောင်ပင် သဒ္ဒါကျမ်းများ အလွန်များပြားစွာပေါ်ထွက်ခဲ့ပါသည်။

*၂ ကစ္စည်းသဒ္ဒါကြီးပါဌ်။ ဗုဒ္ဓသာသနအဖွဲ့၊ ရန်ကုန်မြို့။ (စာမျက်နှာ–ကဲ)။

*၃ မင်းတိုင်ပင်အမတ်ကြီးမဟာဓမ္မသင်္ကြန်၏ သာသနာလင်္ကာရစာတမ်း။ သာသနာရေးဝန်ကြီးဌာန၊ ရန်ကုန်မြို့။ ၂၀၀၀–ပြည့်နှစ်။ (စာမျက်နှာ–၁၄၂)။

အပိုင်းဟူ၍လည်းကောင်း၊ ကျန်သုံးပိုင်း(ဘုံပိုင်း၊ သမုစ္စည်းပိုင်းနှင့်ကမ္မဋ္ဌာန်းပိုင်း)တို့သည် သုတ္တန်ပိဋကကိုအကျဉ်းချုံးထားသောအပိုင်းဟူ၍လည်းကောင်း၊ သို့ဖြစ်၍ သင်္ဂြိုဟ်ကျမ်းကလေးကို နှုတ်ငုံရသူသည် အဘိဓမ္မာပိဋကနှင့်သုတ္တန်ပိဋကဟူသော ပိဋကတ်နှစ်ပုံကိုအကျဉ်းချုံး၍ နှုတ်ငုံဆောင်ထားသူနှင့်တူသည်ဟူ၍လည်းကောင်း လယ်တီဆရာတော်ကြီးလောင်းလျာအရှင်ဉာဏ ယူဆထားခဲ့သည်။ *၁

သီဟိုဠ်သားတို့နှင့် အရှင်ဉာဏ အဘိဓမ္မာအရေးတို့ကို ဆက်လက်၍ဆွေးနွေးကြရာ၌ မပြေမလည်ဖြစ်ကာ စကားအချေအတင်ပြောသည့်အဆင့်သို့ရောက်ခဲ့ရသည်။ အချေအတင်စကားများရသည်မှာ သင်္ဂြိုဟ်ကျမ်းကိုဖွင့်ဆိုသော အရှင်သုမင်္ဂလသာမိ၏ အဘိဓမ္မတ္ထဝိဘာဝိနီဋီကာကျော်ကျမ်းကိုအကြောင်းပြု၍ စကားအချင်းများရခြင်းဖြစ်သည်။

သီဟိုဠ်စာသင်သားတို့က–'အရှင်သုမင်္ဂလသာမိ၏အဘိဓမ္မတ္ထဝိဘာဝိနီဋီကာကျော်ကျမ်းကို အရှင်တို့မြန်မာနိုင်ငံက ဋီကာကျော်ဟုလည်းကောင်း၊ ဋီကာလှဟုလည်းကောင်း ထောပနာပြုခေါ်ဆိုကြကုန်၏။ *၂ ထို့ပြင် အဘိဓမ္မတ္ထဝိဘာဝိနီကျမ်းကို မြန်မာနိုင်ငံ၌ရှေးခေတ်အဆက်ဆက်ကပင် အမွန်အမြတ်ထား၍ ဆရာစဉ်ဆက်သင်ကြားခဲ့ကြသည်။ ထိုအဘိဓမ္မတ္ထဝိဘာဝိနီကျမ်း မြန်မာနိုင်ငံသို့ရောက်သွားစဉ်အခါက သီဟိုဠ်ကျွန်းသားပညာရှိများက 'ဋီကာအူပေါက်တစ်စောင် ဇမ္ဗူဒိပ်(မြန်မာနိုင်ငံ)သို့ရောက်သွားသည်ဟု အဆိုပြုခဲ့ကြကြောင်းနှင့် ထိုအဘိဓမ္မတ္ထဝိဘာဝိနီကျမ်းကို မိမိတို့သီဟိုဠ်ကျွန်း၌ သင်လည်းမသင် အလေးဂရုလည်းမပြုကြကြောင်း' ပြောဆိုကြကုန်၏။

မြန်မာနိုင်ငံ၌ မွန်မွန်မြတ်မြတ် ရွှေကလာပ်ပေါ်တင်၍သင်ကြားနေသော ဋီကာကျော်ကျမ်းကို ထိုကျမ်းပေါ်ထွက်ခဲ့ရာ အမိသီဟိုဠ်ဒေသက 'ဋီကာအူပေါက်'ဟုဆိုလိုက်သည့်အတွက် မြန်မာများကို တမင်နှိမ်၍ဆိုခြင်းဖြစ်သည်ဟုမှတ်ယူပြီး အရှင်ဉာဏက– 'ဟုတ်ပါပေတယ်၊ အရှင်တို့သီဟိုဠ်ကျွန်းကဖြစ်သော ထိုဋီကာကျမ်းသည် အမှားတွေမျိုးစုံနှင့်ပြွမ်းနေသောကျမ်းပဲ၊ ဋီကာအူပေါက်သည်ဆိုသည်မှာ အမှန်ပဲ၊ တပည့်တော်တို့နိုင်ငံက အလွန်ပညာရှိ အလွန်ထက်မြက်သောဆရာတော်ကြီးများကမူ ဤကျမ်းကိုမသင်ကြနှင့်ဟု အစဉ်အဆက်မိန့်ခဲ့ကြတယ်'ဟု ပွင့်ပွင့်လင်းလင်း ဖွင့်ဟပြောကြားတော့သည်။ *၃

---

*၁ ဤအချက်ကိုရည်ရွယ်ပြီး နောင်သောအခါ ပရမတ္ထသံခိပ်ကျမ်းနိဂုံး၌ 'ပိဋကနှစ်ပုံ၊ အကျဉ်းခြုံ၊ နှုတ်ငုံသူတို့မှာ' ဟု လယ်တီဆရာတော်ဘုရားကြီး ရေးတော်မူခဲ့သည်။ လယ်တီဆရာတော်ကြီး၏ ပရမတ္ထသံခိပ်ကျမ်း။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၂၇၈)။

*၂ မင်းတိုင်ပင်အမတ်ကြီးမဟာဓမ္မသင်္ကြံ၏ သာသနာလင်္ကာရစာတမ်း။ ၂၀၀၀–ပြည့်နှစ်။ (စာမျက်နှာ–၁၇၄)။

*၃ လယ်တီဆရာတော်ကြီး၏ သင်္ဂြိုဟ်မဟာဋီကာသစ်ပါဌ်။ ၁၂၆၉–ခုနှစ်။ (စာမျက်နှာ–ဆ၊ ၄)။ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၈၄)။

သီဟိုဠ်စာသင်သားတို့က အဘိဓမ္မာရေး၌ မြန်မာနိုင်ငံထက်သူတို့သာသည်ဟု ဂုဏ်ယူဝင့်ကြွားခဲ့သော်လည်း၊ စင်စစ် သီဟိုဠ်၌ ပဌမရာဇသီဟမင်းလက်ထက် သာသနာ ၂၀၈၅–ခုနှစ် (အေဒီ–၁၈၅၃)ကပင် သာသနာတော်ပျက်စီး၍ အထူးအားဖြင့် အဘိဓမ္မာပိဋက၊ ပဋ္ဌာန်းပါဠိတော်ကြီး၏နောက်ပိုင်းခြောက်ကဏ္ဍပျောက်ဆုံးခဲ့ရပြီး၊ *၁ အဘိဓမ္မာသင်ယူပို့ချမည့်သူမရှိ၍ သီဟိုဠ်စာသင်သားများစွာ မြန်မာနိုင်ငံသို့ကြွလာပြီး အဘိဓမ္မာပါဠိတော်တို့ကို မြန်မာဆရာတော်ကြီးများထံ သင်ယူခဲ့ကြရပါသည်။ *၂

မည်သို့ဖြစ်စေ မျက်မှောက်သာသနာ၌ အဘိဓမ္မာကို မြန်မာနိုင်ငံက ထီးထီးမားမား ဦးဆောင်ဦးရွက်ပြုနေချိန်ဖြစ်၍ ခေတ်ဟောင်းကအဘိဓမ္မာသာသနာ၌ ကျော်ကြားခဲ့၍ ရွှေထီးဆောင်းနေသည့် သီဟိုဠ်စာသင်သားတို့အား အရှင်ဉာဏသည် ဘာကိုမှုမငဲ့ညှာနိုင်တော့ဘဲ 'ငါ့ရှင်တို့ အရှင်ဘုရားတို့၏သီဟိုဠ်ကျွန်းက အရှင်သမင်လာသာမိရေးတဲ့ အဘိဓမ္မတ္ထဝိဘာဝိနီဋီကာဟာ အမှားတွေမျိုးစုံနှင့်ပြွမ်းနေတယ်၊ အခုထောက်ပြပါဆို ထောက်ပြလိုက်မယ်၊ မြန်မာနိုင်ငံဖြစ် ပါဠိဘာသာနဲ့ရေးထားတဲ့ ပထမတန်းဋီကာတစ်စောင်ကို တပည့်တော်ကိုယ်တိုင်ရေးပြမယ်' ဟု စိတ်ထဲရှိသည့်အတိုင်း ပွင့်ပွင့်လင်းလင်းပြောချလိုက်ခြင်းပင်ဖြစ်တော့သည်။ *၃

### အဘိဓမ္မာဆိုင်ရာသေချာစွာလေ့လာတော်မူခြင်း

ထိုအခါမှစ၍ စံကျောင်းတိုက်ကြီး၏ဂဏဝါစကစာချဘုန်းကြီးအရှင်ဉာဏသည် စံကျောင်းဆရာတော်ဘုရားကြီးထံ၌ အဘိဓမ္မာအဋ္ဌကထာစာဝါများကို စာချဘုန်းကြီးအဖြစ်ရောက်နေသော်လည်း စာသင်သားများရှေ့မှ အထူးဂရုပြုလိုက်တော်မူခဲ့၏။ စာချသည့်အခါတွင် အဘိဓမ္မာဆိုင်ရာစာဝါတို့ကိုသာ ဦးစားပေး၍ပို့ချတော်မူခဲ့လေသည်။ ထို့ပြင် အရှင်ဉာဏသည် အဘိဓမ္မာစာပေတို့ကိုကြည့်ရာတွင် စာပို့ချရုံအတွက်မျှသာမဟုတ်ဘဲ မိမိသိလိုသောအချက်အလက်တို့ သဲကွဲသေချာသိရှိနိုင်ရန် စေ့စပ်သေချာစွာကြည့်ရှုတော်မူခဲ့၏။ ထို့ပြင် ဆရာသမားအစဉ်အဆက်မိန့်ဆိုတော်မူသော အာစရိယဝါဒတို့ကိုလည်း လိုက်လံမေးမြန်းကာ မှတ်သားထားတော်မူခဲ့ပါသည်။ ဤသို့ အဘိဓမ္မာကျမ်းများကို ကျယ်ကျယ်ပြန့်ပြန့်အသေအချာစိစစ်ဝေဖန်လေ့လာသည့်အခါ မင်းတုန်းမင်းကြီးလက်ထက်တော်အခါက မန္တလေးရွှေမြို့တော်လေးပြင်လေးရပ်၌ သီတင်းသုံးနေတော်မူသော နက်နဲသောဉာဏ်ရှိတော်မူကြသော ထက်မြက်ဉာဏ်ရှိတော်မူကြသော ဆရာတော်ကြီးများ၏မိန့်ဆိုတော်မူကြသောစကားတို့ကိုလည်း လယ်တီဆရာတော်ကြီးလောင်းလျာ

---

*၁ သီဟိုဠ်ကျွန်း၌ပျောက်ဆုံးခဲ့သော ပဋ္ဌာန်းပါဠိတော်ကို မဟာဝိသုဒ္ဓါရုံဆရာတော်တို့လက်ထက်သို့ရောက်မှ တောင်းခံလာသဖြင့် မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးက ပဋ္ဌာန်းပါဠိတော်အပြည့်အစုံပေးပို့ခဲ့ရ၏။ အရှင်သီရိဓမ္မနှင့် လယ်တီပဏ္ဍိတတို့၏ မဟာဝိသုဒ္ဓါရာမိကထေရုပ္ပတ္တိဒီပနီပါဌ်နိဿယ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၅–ခုနှစ်။ (စာမျက်နှာ–၂၁၈)။

*၂ သီဟိုဠ်က စာသင်သားများစွာတို့ မြန်မာနိုင်ငံသို့လာရောက်၍ အဘိဓမ္မာသင်ယူရပုံနှင့်စပ်၍ သီဟိုဠ်ကျွန်းသား အဘိဓမ္မာတတ်ဘဒ္ဒန္တ အာနန္ဒမေတ္တေယျဆရာတော်ကြီး၏ မိန့်ခွန်းစကားတော်တစ်ရပ်ရှိပေသည်။

*၃ လယ်တီအရှင်ကေလာသ၏ သင်္ဂြိုဟ်မဟာဋီကာသစ် မြန်မာပြန်၊ ပထမတွဲ။ ၁၉၂၂–ခုနှစ်။ (စာမျက်နှာ–အေ)။

အရှင်ဉာဏသည် မိမိမှတ်သားမိသည့်အတိုင်း နောင်သောအခါ၌ အောက်ပါအတိုင်းမှတ်တမ်းတင် ရေးသားတော်မူခဲ့ပါသည်။

'မန္တလေးမြို့တော်ကြီး၏လေးပြင်လေးရပ်တို့၌ အကြင်မဟာထေရ်ကြီးတို့သည် အလွန်ထက်မြက်သောဉာဏ်ပညာနှင့်ပြည့်စုံတော်မူကြကုန်သည်ဟူ၍လည်းကောင်း၊ နက်နဲသောဂမ္ဘီရဉာဏ်နှင့်ပြည့်စုံတော်မူကြကုန်သည်ဟူ၍လည်းကောင်း ထင်ပေါ် ကျော်စောတော်မူကြကုန်၏။

ထိုသို့ထင်ပေါ်ကျော်စောတော်မူကြကုန်သော အတိတိက္ခ, အတိဂမ္ဘီရ မဟာ ထေရ်မြတ်ကြီးတို့သည် အဘိဓမ္မာဘက်ဆိုင်ရာ မူလဋီကာကျမ်း, အနုဋီကာကျမ်း ဤကျမ်းနှစ်စောင်တို့ကို အသုံးပြုတော်မူလေ့ရှိကြကုန်၏။ ပို့ချသင်ကြားတော်မူလေ့ ရှိကြကုန်၏။ အဘိဓမ္မတ္ထဝိဘာဝိနီဋီကာကျမ်း၊ မဏိသာရမဉ္ဇူသာဋီကာကျမ်း ဤကျမ်း နှစ်စောင်တို့ကိုမူကား အသုံးပြုတော်မူလေ့မရှိကြကုန်။ ပို့ချသင်ကြားတော်မူလေ့ မရှိကြကုန်။ မိမိတို့ကိုယ်တော်တိုင် မသုံးစွဲ, မပို့ချရုံမျှသာမကကုန်၊ မိမိတို့၌မှီ၍ နေကြကုန်သော တပည့်သံဃာတော်များကိုလည်း ထိုကျမ်းနှစ်စောင်တို့ကို သုံးစွဲ ခြင်း၊ သင်ကြားပို့ချခြင်းတို့မှ တားမြစ်တော်မူကြကုန်၏။ တပည့်သံဃာတော်တို့ကို ဤသို့လည်း ပြောဆိုတော်မူလေ့ရှိကုန်၏။

'သင်တို့သည် အဘိဓမ္မတ္ထဝိဘာဝိနီဋီကာနှင့် မဏိသာရမဉ္ဇူသာဋီကာများကို ပို့ချသင်ကြားခြင်းကို မပြုကြကုန်လင့်။ အဘယ့်ကြောင့်နည်းဆိုသော် အဘိဓမ္မတ္ထ ဝိဘာဝိနီဋီကာကျမ်း၌ ချော်ချွတ်မှားယွင်းသောအရာတို့သည် များစွာရှိကုန်၏။ မဏိသာရမဉ္ဇူသာဋီကာကျမ်းကြီးသည်လည်း အနှစ်မပါအကာအတိဖြစ်၍ ကျမ်းလေး သောစကားတို့ဖြင့်သာ ပြည့်၍နေ၏။ အပိုစကားတို့ဖြင့် ကျမ်းကြီး၍နေ၏။ ဝန်လေး၍ နေ၏။ ထိုမဏိသာရမဉ္ဇူသာဋီကာကျမ်းကြီးသည် ဖွဲပုံကြီးနှင့်တူ၏။ ဖွဲစုကြီးနှင့် တူ၏။ ဖွဲဖြင့်ပြည့်သောတိုက်ကြီးနှင့်တူ၏။ ထို့ကြောင့် သင်တို့သည် ထိုဋီကာကျမ်း နှစ်စောင်တို့ကို သင်ကြားပို့ချခြင်းများကိုမပြုကြကုန်လင့်' – ဤကား အတိတိက္ခ, အတိဂမ္ဘီရမဟာထေရ်မြတ်ကြီးတို့၏ စကားတော်များပေတည်း။*[၁]

ဤသို့လျှင် အတိတိက္ခ, အတိဂမ္ဘီရဖြစ်တော်မူကြသောမထေရ်ကြီးတို့၏မိန့်ဆိုတော်မူချက် တို့ကို အရှင်ဉာဏကြားရသောအခါ အရှင်ဉာဏ၌– 'ငါတို့သည် အတိက္ခ,အတိဂမ္ဘီရမဟာထေရ် ကြီးတို့ မိန့်တော်မူသောအတိုင်း ထိုဋီကာကျော်ကျမ်းနှင့် မဏိမဉ္ဇူကျမ်း ဤနှစ်ကျမ်း၌ အနှစ်မရှိ အကာအတိပြီးနေပုံကို သိမြင်သင့်လှ၏'ဟု ဤသို့အကြံဖြစ်တော်မူပါသည်။

---

*[၁] ဤစာနိဒါန်းကို မူလက ပါဠိဘာသာဖြင့်ရေးသားတော်မူခဲ့ပြီး၊ သက္ကရာဇ် ၁၂၆၉ (အေဒီ ၁၉၀၇–ခုနှစ်)တွင် လယ်တီပဏ္ဍိတ ဆရာဦးမောင်ကြီး မြန်မာပြန်ခဲ့ခြင်းဖြစ်သည်။ လယ်တီဆရာတော်ကြီး၏ သဂြိုဟ်မဟာဋီကာသစ်ပါဌ်။ ၁၂၆၉–ခုနှစ်။ (စာမျက်နှာ–၄)။

ထိုအကြံဖြစ်တော်မူသည်မှစ၍ ဋီကာကျော်ကျမ်း၌ပါရှိသောအချက်များကို ပါဠိတော် အဋ္ဌကထာတို့၌လာသောစကားအချက်တို့နှင့် စပ်ဖက်နှိုင်းညှိ တိုက်ဆိုင်လေ့လာတော်မူခဲ့သည်။ သဒ္ဒါအဆုံးအဖြတ်၊ အနက်အဓိပ္ပာယ်အဆုံးအဖြတ်များကိုလည်း သေချာစွာစိစစ်တော်မူခဲ့ပါသည်။ ဤသို့ ပါဠိတော်အဋ္ဌကထာတို့နှင့်တိုက်ဆိုင်နှီးနှော၍စိစစ်တော်မူလေရာ ရှေးမဟာထေရ်ကြီးတို့ မိန့်တော်မူကြဖူးသည့်အတိုင်း ဋီကာကျော်၌ မှားယွင်းချော်ချွတ်သောအရာဌာနတို့ကို ကိုယ်တော် တိုင် ဒိဋ္ဌတွေ့မြင်တော်မူရလေတော့သည်။

ထိုအခါ စာချဘုန်းတော်ကြီးအရှင်ဉာဏက– 'ငါသည် အဘိဓမ္မတ္ထသင်္ဂြိုဟ်ကျမ်း၌ သဒ္ဒါ အဆုံးအဖြတ်၊ အနက်အဆုံးအဖြတ်တို့နှင့်ပြည့်စုံသော ဋီကာကျမ်းစာစောင်ကိုရေးခြင်းငှာ သင့်လှ ချေ၏'ဟူ၍ အဘိဓမ္မာဋီကာတစ်ကျမ်းပြုစုရန် အကြံတစ်ခုပေါ်ပေါက်လာ၏။ ထိုအခါမှစ၍ ပိဋကတ်သုံးပုံတို့ကိုသေချာစွာရှုကြည့်တော်မူ၍ အဘိဓမ္မာနှင့်စပ်ဆိုင်သောအချက်အလက်တို့ကို ကောင်းစွာရွေးကောက်တော်မူပြီးလျှင် ပုရပိုက်တို့၌လည်းကောင်း၊ ဘုတ်အုပ်တို့၌လည်းကောင်း တင်ထားရေးမှတ်တော်မူခဲ့သည်။ နောင်ဋီကာတစ်စောင်ရေးဖြစ်ပါမူကား ထိုမှတ်ချက်တို့သည် သက်သေသာဓကအရာတို့၌တည်စေကုန်လတ္တံ့'ဟူ၍ မြော်ကိုးတော်မူပြီး စာပေမှတ်စုများစွာ ကို စုဆောင်းတော်မူခဲ့ပါသည်။*၁

ဋီကာကျော်ကျမ်းဟူသည်

အဘိဓမ္မတ္ထဝိဘာဝိနီအမည်ရှိသော ဋီကာကျော်ကျမ်းကို ပထမပရက္ကမဗာဟုမင်းလက်ထက် (အေဒီ ၁၁၅၃–၁၁၈၆)တွင် သီဟိုဠ်ကျွန်းသားအရှင်သုမင်္ဂလသာမိမထေရ် ပြုစုတော်မူပါသည်။ အရှင်သုမင်္ဂလသာမိသည် ဋီကာကျော်ကျမ်းကိုမရေးမီ အဘိဓမ္မာဝတာရဋီကာအမည်ရှိသော ကျမ်းတစ်စောင်ကိုလည်းရေးသားခဲ့ပါသည်။ အရှင်သုမင်္ဂလသာမိသည် ဋီကာကျော်ကျမ်းကိုရေးရာ တွင် မိမိ၏ဆရာဖြစ်သူ သံဃရာဇအရှင်သာရိပုတ္တရာမထေရ် သီဟိုဠ်ဘာသာဖြင့်ရေးသားသော သင်္ဂြိုဟ်နိဿယ(အဘိဓမ္မတ္ထသင်္ဂဟပုရာဏသန္နယ)ကျမ်းကိုမှီ၍ ၂၄–ရက်နှင့်အပြီး ရေးသားတော် မူခဲ့ခြင်းဖြစ်လေသည်။*၂

ဋီကာကျော်ကျမ်းကို မြန်မာနိုင်ငံက ဝါကျအနေအထားမှစ၍ ကျစ်လစ်လှပသဖြင့် ဋီကာလှ ဟု ရှေးဦးတချိန်ကခေါ်တွင်ခဲ့ကြသည်။ စစ်ကိုင်းအရှင်အရိယာဝံသမထေရ်တို့လက်ထက်သို့ ရောက်သော် ဤကျမ်းကို ရေငုံဆရာတော်ထံမှ အရှင်အရိယာဝံသမထေရ် နည်းခံသင်ယူရာတွင် ကျမ်းဦးဂန္ထာရမ္ဘပါသော စာတစ်ပလ္လင်–သင်ရရုံမျှ စာတတ်ပုဂ္ဂိုလ်ဖြစ်ခဲ့ရသောကြောင့် ဤကျမ်းကို 'ကျော်ရောဟဲ့ဋီကာ'ဟုဆိုလိုက်သဖြင့် 'ဋီကာကျော်'ဟူသောအမည်တွင်ပြန်သည်။ အဘိဓမ္မတ္ထ

*၁ လယ်တီဆရာတော်ကြီး၏ သင်္ဂြိုဟ်မဟာဋီကာသစ်ပါဌ်။ ၁၂၆၉–ခုနှစ်။ (စာမျက်နှာ–၄)။

*၂ အရှင်ကေသာလ၏ မဟာဝိသုတာရာမသာသနာဝင်ကျမ်း။ ၁၉၇၀–ပြည့်နှစ်။ (စာမျက်နှာ–၉၇)။ Somapala Jayawardhana' Handbook of Pali Literature. Karunaratne & Sons Ltd., Colombo. 1994. Page-4.

ဝိဘာဝိနီခေါ် ဋီကာကျော်ကျမ်းကို သင်္ဂြိုဟ်သင်ပြီးသောပုဂ္ဂိုလ်တိုင်း ဆက်လက်၍သင်ကြား ရလေ့ရှိရာ၊ ဋီကာကျော်ကျမ်းသည် သင်္ဂြိုဟ်ကျမ်းနည်းတူ မြန်မာနိုင်ငံ၌အရေးပါအရာရောက် သော စာသင်သားကိုင်ကျမ်းတစ်စောင်ဖြစ်ခဲ့လေသည်။

## ဋီကာကျော်နှင့်အရှင်ဉာဏ

အရှင်ဉာဏတို့ငယ်စဉ်စာသင်သားဘဝက ဆရာသမားများထံမှ ဋီကာကျော်ကျမ်းကိုသင်ခဲ့ ရဖူးသည်။စာချဘုန်းကြီးဘဝသို့ရောက်သောအခါမှာလည်း တပည့်များကို ဋီကာကျော်ကျမ်း ချပေးခဲ့ဖူး၏။*[၁] သို့ပါသော် စိတ်တိုင်းကျကားမဟုတ်ပေ။ မကျပုံမှာ– ထိုကျမ်း၌ ချွတ်ယွင်းမှု များကို တွေ့ရှိသောကြောင့်ဖြစ်သည်။*[၂] ဤသို့ ဋီကာကျော်၌ ချွတ်ယွင်းမှုများရှိနေသည်ကို ရှေးဆရာတော်ကြီးများမသိ,မဟုတ် သိကြတော်မူပြီးဖြစ်၏။ ရေညှိရေမှော်ကိုဖယ်၍ ရေကြည် ကိုသာ ယူဆောင်သောက်သုံးသကဲ့သို့ပင် ရှေးဆရာတော်ကြီးတို့သည်လည်း မိမိအလိုရှိသော အနက်အဓိပ္ပာယ်ကိုသာယူပြီး ချွတ်ချော်တိမ်းယိမ်းသည်တို့ကိုမူကား သည်းခံတော်မူခဲ့ကြခြင်းသာ ဖြစ်သည်။*[၃]

စာချဘုန်းကြီးအရှင်ဉာဏမှာ စိတ်နေစိတ်ထားထက်မြက်သောပုဂ္ဂိုလ်ဖြစ်သည့်အတိုင်း ဤမျှနှင့်မကျေနပ်နိုင်သေးဘဲ ရှေးဆရာတော်အဆက်ဆက်တို့၏ ဋီကာကျော်ကျမ်း၌ ချွတ်ယွင်းမှု များစွာပါဝင်နေသည်ဆိုသောစကားကို မှန်ကန်ကြောင်းသက်သေပြလိုသဖြင့် ရှေးဆရာတော် အဆက်ဆက်တို့၏အဆိုအမိန့်အာစရိယဝါဒတို့ကိုမှတ်သားခဲ့ဖူးသည့် မန္တလေးမြို့၊ မင်္ဂလာဈေး အရှေ့ရှိ ဆန်တန်း၌နေသော မောင်းထောင်အဆက် စာတတ်ပေတတ် ဆရာတော်လူထွက်ကြီး တစ်ဦးထံသို့သွားရောက်တွေ့ဆုံခဲ့၏။ ထိုဆရာတော်လူထွက်ကြီးထံ ဋီကာကျော်ပေမူတစ်ဆူကို

---

*၁ လယ်တီဆရာတော်ကြီးသည် ဋီကာကျော်ကျမ်းကို စာသင်သားတို့အားပို့ချဖူးကြောင်းကို လယ်တီစာသင်နည်း၌ 'ဋီကာ ကျော်ချစဉ်အခါ အက္ခရာတစ်လုံးပင်ဖြစ်သော်လည်း တစ်ဝါကျဖြစ်ထိုက်လျှင် ပုဒ်မကြီးတစ်ခုစီနှင့် ရေးထားရှိနေသော မဏိမဉ္ဇူမှုပဟောင်းတစ်စောင်ကိုကြည့်ရှုရရာ' ဟု ရေးသားထားချက်ကိုထောက်ထား၍ ဖော်ပြခြင်းဖြစ်ပါသည်။ လယ်တီ ဆရာတော်ကြီး၏ သာသနဝိသောဓနီကျမ်း၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၂၁၀)။

*၂ လယ်တီဆရာတော်ကြီးက 'ဋီကာကျော်ကျမ်းကို အတိတိက္ခ အတိဂမ္ဘီရဆရာတော်ကြီးများက မပို့ချကြနှင့်' ဟု မိန့်ဆို ကြောင်း သင်္ဂြိုဟ်မဟာဋီကာသစ်ပါဌ်၌ ရေးသားတော်မူခြင်းနှင့်စပ်၍ မော်ပီဆရာသိန်းသည် ရှေးဟောင်းရှေးဖြစ်စာတန်း။ (စာမျက်နှာ–၁၀၈)၌ 'စံကျောင်းဆရာတော်ကြီးသည် ဋီကာကျော်ကျမ်းကို အမွှန်အမြွတ်ထား၍ပို့ချကြောင်း' ဟူ၍ လည်းကောင်း၊ စံကျောင်းဆရာတော်ကြီး၏ အတ္ထုပ္ပတ္တိ(ဆောင်းပါး)။ (သူရိယမဂ္ဂဇင်း၊ ၁၉၂၄–ခုနှစ်၊ ဖေဖော်ဝါရီလထုတ်)၌ 'စံကျောင်းဆရာတော်ကြီးဦးသုဒဿနသည် ဋီကာကျော်နှင့် မဏိမဉ္ဇူသာကျမ်းတို့ကို အမွှန်အမြွတ်ထားကြောင်း' ဟူ၍လည်းကောင်း ရေးသားထားပါသည်။ ဘားကူးဆရာတော်အရှင်သာဂရ၏ အဘိဓမ္မတ္ထအနုဝိဘာဝနီပါဌ်၊ ပထမတွဲ။ (စာမျက်နှာ–၈၊ နိဒါန်း)၌ 'အဘိဓမ္မတ္ထဝိဘာဝနီကျမ်းကြီးကို စံကျောင်းဆရာတော်ဘုရားကြီးကိုယ်တိုင်လည်း ချီးမွမ်းတော် မူကြောင်းကို ကြားသိတော်မူကြကုန်သော မထေရ်အပေါင်းတို့သည်ရှိတော်မူ၏' ဟု ရေးသားထားခြင်းတို့ကို စဉ်းစားရန်ရှိ နေပါသည်။

*၃ ဆရာမာဃ၏ ကျွန်တစ်ခေတ်သာသနာရေး(ဆောင်းပါး)။ သံတော်ဆင့်သတင်းစာ။ ၁၉၃၆–ခုနှစ်။

ပို့ထားပြီး 'ဆရာတို့အစဉ်အဆက်တို့ မကြိုက်ခဲ့သမျှ အချက်အလက်တို့ကို တေးထားပေးပါ'ဟု မှာထားခဲ့၏။ ဆရာတော်လူထွက်ကြီးကလည်း ရှေးအစဉ်အဆက် ဆရာတော်ဦးပုဉ်တို့လက်ထက်ကပင်စ၍ ဋီကာကျော်ကျမ်းအပေါ် မကြိုက်ခဲ့သမျှအချက်တို့ကိုတေးမှတ်ထားပြီး အရှင်ဉာဏအား ပေးအပ်ခဲ့သည်ဆို၏။[*၁] ဤနည်းဖြင့် အရှင်ဉာဏသည် ရှေးဆရာတော်အဆက်ဆက်တို့ မှတ်သားအပ်သော ဋီကာကျော်ကျမ်းလာချွတ်ယွင်းမှုအရပ်ရပ်တို့ကို စုဆောင်းရရှိခဲ့လေသည်။

## မောဂ္ဂလ္လာနဒီပနီရေးသားရန် ကြံစည်တော်မူခြင်း

အရှင်ဉာဏသည် ရဟန်းခုနစ်ဝါ,ရှစ်ဝါအရတွင် မောဂ္ဂလ္လာန်သဒ္ဒါကျမ်း၏အဖွင့် မောဂ္ဂလ္လာနဒီပနီကျမ်းကိုရေးသားတော်မူရန် အကြံအစည်ဖြစ်တော်မူခဲ့ပြန်ပါသည်။ ထိုသို့ မောဂ္ဂလ္လာနဒီပနီကျမ်းရေးဖြစ်တော်မူခဲ့ပုံတို့ကို လယ်တီဆရာတော်ကြီးကိုယ်တော်တိုင်ရေးသားအပ်သော အောက်ပါစကားရပ်တို့ဖြင့် သိနိုင်ပေသည်။

> တသ္မာ မန္တလေးနဂရေ မဟာဇောတိကာရာမသာမိနော တိပိဋက မဟာထေရဿပါဒမူလေ ဝသန္တဿ သတ္တဋ္ဌဝဿိကကာလေ မမသင်္ကပ္ပေါ် သဉ္ဇာယတိ။ 'ယန္နူနာဟံ မောဂ္ဂလ္လာန ဒီပနိံနာမ ရစယေယျ'န္တိ၊ ဧဝံ သဉ္ဇာတသင်္ကပ္ပေါ် သမာနော သာဋ္ဌကထံ ပိဋကတ္တယံ သမနုပဿန္တော ပစ္စသု နိကာယေသု ဒိဋ္ဌဒိဋ္ဌာနိ ပယောဂပဒါနိ သမုဒ္ဓရိတွာ မဟာပေါတ္ထကေ သမ္မာ လိခိတွာ ထပေမိ။[*၂]

မြန်မာပြန်ကား–

ထို့ကြောင့် မန္တလေးမြို့ မဟာဇောတိကာရာမည်သော စံကျောင်းတိုက်ကြီး၏အရှင် သုံးပုံသောပိဋကတ်တို့၌တတ်မြောက်သိမြင်တော်မူပြီးသော စံကျောင်းဆရာတော်ဘုရားကြီး၏ခြေရင်း၌ ပိဋကတ်သုံးဖြာကိုသင်ကြား၍နေစဉ် ရဟန်းခုနစ်ဝါ,ရှစ်ဝါရလောက်ကပင် ဤနိရုတ္တိဒီပနီကျမ်းကိုရေးသားတော်မူသောမထေရ်မြတ်အား 'ငါသည် မောဂ္ဂလ္လာန်ဗျာကရဏ်းကျမ်း၏အဖွင့်ကိုရေးသားအံ့'ဟူ၍ အကြံဖြစ်တော်မူ၏။ ဤသို့အကြံတော်ဖြစ်တော်မူလတ်ရကား အဋ္ဌကထာနှင့်တကွသောပိဋကတ်

---

*၁ ဤအချက်တို့ကို ၁၉၇၅–ခုနှစ်က မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံတိုက်သစ်၊ သူဌေးတန်းကျောင်းဆရာတော်ဦးမာနိတသိရီ၊ မြန်မာ့သမိုင်းပညာရှင် ဆရာကြီးဦးမောင်မောင်တင်(မဟာဝိဇ္ဇာ)တို့နှင့်အတူ စကျင်တောင်သို့သွားရောက်ခဲ့ရာ၊ စကျင်ရွာမှ သက်တော်ဝါတော် ကြီးရင့်တော်မူပြီဖြစ်သော ဆရာတော်ကြီးတစ်ပါးထံမှ မှတ်သားမိခြင်းဖြစ်သည်။ ထိုစဉ်က ဤအချက်ကို အမိန့်ရှိသောဆရာတော်ကြီး၏ဘွဲ့အမည်ကို မှတ်သားမိခဲ့သော်လည်း ယခုအခါ အတိအကျမဖော်ပြနိုင်တော့ပါ။

*၂ မောဂ္ဂလ္လာနဒီပနီဟူသည် နိရုတ္တိဒီပနီကိုဆိုလိုပါသည်။ လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီပါဠိ။ ၁၂၆၇–ခုနှစ်။ (စာမျက်နှာ–၅)။ အထက်ပါပါဠိစကားဝါကျတို့မှာ လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီပါဠိ။ ၁၂၆၇–ခုနှစ်၊ ပထမအကြိမ်ရိုက်စာအုပ်၌ ပါရှိခဲ့သည်။ ပြည်ထောင်စုမြန်မာနိုင်ငံဗုဒ္ဓသာသနာအဖွဲ့(ယခု–သာသနာရေးဦးစီးဌာန)က ၁၉၇၀–ပြည့်နှစ်ကပြန်လည်ရိုက်နှိပ်သော နိရုတ္တိဒီပနီကျမ်းတွင် ဤပါဠိဘာသာရေးမူလနိဒါန်းမပါခဲ့ပေ။

သုံးပုံကိုရှုကြည့်တော်မူဆဲအခါ၌ နိကာယ်ငါးရပ်တို့မှ တွေ့တွေ့သမျှသောပြယုဂ်ထူး ပြယုဂ်ဆန်းတို့ကိုထုတ်နုတ်၍ ပုရပိုက်,ပေ,ဘုတ်အုပ်တို့၌ ကောင်းစွာစီစဉ်ရေးမှတ်၍ ထုတ်ယူသန့်ထားတော်မူ၏–ဟူ၍ဖြစ်ပါသည်။*၁

အထက်ဖော်ပြပါစကားရပ်တို့ကိုထောက်ဆခြင်းဖြင့် အရှင်ဉာဏသည် ခုနစ်ဝါအလွန် ရှစ်ဝါအရမှာပင် မောဂ္ဂလ္လာန်ကျမ်း၏အဖွင့်ကိုရေးသားရန် စတင်ကြံစည်ကြိုးပမ်းတော်မူခဲ့ကြောင်းကို သိနိုင်၏။

မောဂ္ဂလ္လာန်သဒ္ဒါကျမ်း

မောဂ္ဂလ္လာန်ကျမ်းဆိုသည်ကား ကစ္စည်းသဒ္ဒါကြီးဖြစ်ပေါ်ပြီးနောက် ကစ္စည်းသဒ္ဒါကြီး၌မပါခဲ့သော ပြယုဂ်အလုံးကိုသိမ်းကျုံးယူ၍ မိမိကိုယ်ပိုင်သုတ်,ဝုတ္တိ,ပဉ္စိကာ–စသည်ဖြင့် သာသနာ-၁၆၉၆ (အေဒီ–၁၁၅၂)ခုနှစ် မဟာပရက္ကမဗာဟုမင်းလက်ထက် သီရိလင်္ကာကျွန်း အနုရာဓမြို့ ထူပါရာမကျောင်းနေ မဟာမောဂ္ဂလ္လာန်ထေရ် စီရင်ရေးသားသောကျမ်းဖြစ်၏။*၂

မောဂ္ဂလ္လာန်သဒ္ဒါကျမ်းပြုအရှင်မောဂ္ဂလ္လာန်သည် သက္ကတသဒ္ဒါပညာရှင်စန္ဒြဂေါမိန်ရေးသော စန္ဒြဗျာကရဏ်း(စန်းကျမ်း)မှ ပါဠိဘာသာနှင့်လျော်သောသုတ်,ဝုတ္တိ,ပဉ္စိကာတို့ကိုယူ၍ မောဂ္ဂလ္လာန်ကျမ်းကိုစီရင်တော်မူခဲ့ခြင်းဖြစ်သည်။ မောဂ္ဂလ္လာန်ကျမ်းသည် သက္ကတနည်းကိုအမှီးဆုံးကျမ်းဖြစ်၍ ပါဠိသက်သက်သာကျွမ်းကျင်သော(သုဒ္ဓမာဂဓိက)ပုဂ္ဂိုလ်တို့အဖို့မှာ ထိုကျမ်း၏အနက်အဓိပ္ပာယ်ကို အကျယ်တဝင့် မကြွင်းမကျန်သိခြင်းငှာ ခဲယဉ်းလှပေသည်။ ထို့ပြင် ထိုမောဂ္ဂလ္လာန်သဒ္ဒါကို အကျယ်တဝင့်သိစေရန်အတွက် ဖွင့်ဆိုရေးသားခဲ့ကြသော မောဂ္ဂလ္လာန်အဖွင့်ကျမ်းဂန်တို့က လည်း လွန်ခဲ့သောရှေးခေတ်များကပင် အစုံအလင်ရှာဖွေ၍မရတော့သဖြင့် ထိုမောဂ္ဂလ္လာန်ကျမ်းကို ပြည့်ပြည့်စုံစုံသိရန်အရေးမှာ လွန်စွာမှခဲယဉ်း၍နေပြန်ပါသည်။

မောဂ္ဂလ္လာန်သဒ္ဒါအဖွင့်ကျမ်းများ

မောဂ္ဂလာန်ကျမ်းကိုသိနားလည်စေရန် ဖွင့်ဆိုရေးသားကြသောကျမ်းတို့တွင် ပဒသာဓန၊ သုသဒ္ဒသိဒ္ဓိ၊ သမ္ဗန္ဓစိန္တာ၊ သာရတ္ထဝိလာသိနီ၊ ပယောဂသိဒ္ဓိ၊ ပဉ္စိကာပဒီပ၊ ဖုဒ္ဓိပ္ပသာဒနီ-စသည့်ကျမ်းများစွာ ရှိကြကုန်၏။

ထိုကျမ်းတို့တွင်လည်း မောဂ္ဂလ္လာန်စာကိုယ်ကျမ်းရင်းဖြစ်သော ပဒသာဓနစာကိုယ်လောက်သာ မြန်မာနိုင်ငံသို့ရောက်ဟန်တူသည်ဟု ပညာရှင်တို့ယူဆကြ၏။ ကျန် သုသဒ္ဒသိဒ္ဓိစသော

*၁ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ မြန်မာပြန်ဖြစ်ပါသည်။ လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီပါဌ်။ ၁၂၆၇–ခုနှစ်။ (စာမျက်နှာ–၇)။

*၂ အဂ္ဂမဟာပဏ္ဍိတအဘယာရာမဆရာတော်ကြီး၏ မောဂ္ဂလ္လာန်နိသျ၊ ပထမတွဲ။ မြဖော်ပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၃၃၂-ခုနှစ်။ (စာမျက်နှာ–ထ)။ ဤနေရာ၌ မဟာပရက္ကမဗာဟုမင်းဆိုသည်မှာ ပထမပရက္ကမဗာဟုမင်း (အေဒီ ၁၁၅၃–၁၁၈၆) ကို ဆိုလိုသည်။

အဖွင့်ကျမ်းများသည်ကား မြန်မာပြည်ကိုရောက်လာဖို့မဆိုထားနှင့် သီဟိုဠ်ကျွန်းမှာပင် ရှာဖွေ၍ မရလောက်အောင်တိမ်မြုပ်ခဲ့ပြီဟု ပညာရှင်တို့ဖော်ပြကြကုန်၏။*၁ သို့ဖြစ်၍ မောဂ္ဂလ္လာန်သဒ္ဒါ သည် သက္ကတသဒ္ဒါနည်းကိုအမှီးဆုံးကျမ်းဖြစ်သည်ကတစ်ကြောင်း၊ ဆိုင်ရာအဖွင့်ကျမ်းကို လွယ်လင့်တကူရှာဖွေ၍မရသောကြောင့်တစ်ကြောင်း ဤအကြောင်းနှစ်ရပ်တို့ကြောင့် မောဂ္ဂလ္လာန် ကျမ်းသည် ခက်ခဲသည်၊ ကြည့်ရှုပို့ချရ ပင်ပန်းသည်ဟုအထင်ခံရကာ ခေတ်အဆက်ဆက် ကပင် ချပို့သင်အံသုံးစွဲခြင်းမပြုဘဲရှိခဲ့ကြ၏။ နှစ်ပေါင်းများစွာကြာအောင် ချပို့သင်အံသုံးစွဲခြင်း ကင်းမဲ့သည့်အတွက် မောဂ္ဂလ္လာန်ကျမ်းပေမူတို့သည် အက္ခရာပုဒ်ဗျည်းကျပေါက်ချွတ်ယွင်းခြင်း၊ နားလည်သလိုပြင်ဆင်ဖြည့်စွက်ထားကြခြင်း၊ အနက်အဓိပ္ပာယ်ကွယ်ဝှက်နေခြင်း စသည်တို့ ကြောင့် ရာဟုဖမ်းသောလပြည့်ဝန်းသဖွယ် ပျောက်ကွယ်တိမ်မြုပ်ခြင်းသို့ရောက်ခဲ့ရ၏။

အရှင်ဉာဏသည် ထိုမောဂ္ဂလ္လာန်ကျမ်း၏အဖွင့်ဒီပနီကျမ်းကို ရေးသားမည်ဆိုပါက မောဂ္ဂလ္လာန်မူသန့်မူကောင်းတစ်စောင်ကိုရရှိအောင် ရှေးဦးစွာကြိုးပမ်းတော်မူရမည်ဖြစ်သည်။ ထို့နောက် မောဂ္ဂလ္လာန်ကျမ်းဆိုင်ရာအဖွင့်ကျမ်းတို့ကိုရှာဖွေရမည်ဖြစ်သည်။ ထို့ပြင် မောဂ္ဂလ္လာန် ကျမ်းပြုဆရာမှီငြမ်းခဲ့သော စန္ဒြဗျာကရဏ်းအပါအဝင် သက္ကတကျမ်းဂန်တို့ကိုလည်း ကြည့်ရှုဖို့ လိုလာ၏။

---

*၁ အေဒီ ၁၉၂၁–ခုနှစ်တွင် မောဂ္ဂလ္လာန်နှစ်စောင်တွဲကျမ်းကို တည်းဖြတ်ရိုက်နှိပ်တော်မူခဲ့သော မန္တလေးမြို့ ခင်မကန်တိုက် မန်ကျည်းပင်ကျောင်းဆရာတော် အရှင်သီလာစာရမထေရ်က ထိုစာအုပ်နိဒါန်း၌ ပါဠိဘာသာဖြင့်ရေးသားထားသည်မှာ 'မောဂ္ဂလာန်အဖွင့်ကျမ်း သုသဒ္ဒသိဒ္ဓိနှင့် ပဒါဝတာရကျမ်းတို့နှင့်စပ်၍– ဒွေမေ ပသတ္ထ ဂန္ထာ နဝိဇ္ဇန္တေ ဒါနိသီဟဠ်ကာနံ ဝိသယေ ပဒါဝတာရောစ သုသဒ္ဒသိဒ္ဓိစေတိ= ဤသို့ချီးမွမ်းအပ်သော ဤကျမ်းနှစ်ကျမ်းသည် ယခုအခါ သီဟိုဠ်နိုင်ငံ၌ မရှိကုန်'ဟုလည်းကောင်း၊ 'မရမ္မိကာနံပန ဝိသယံ ပုဗ္ဗေဝ နာဂတာ= မြန်မာနိုင်ငံသို့ကား ရှေးကပင်မရောက်စဖူး'ဟု လည်းကောင်း ရေးသားထား၏။ ထို့ပြင် ပယောဂသိဒ္ဓိကျမ်းနှင့်စပ်၍– 'သာပန ယာဝဇ္ဇတနာ အသ္မာကံ နာဂတာ = ထို ကျမ်းသည်ကား ယနေ့တိုင်အောင် ငါတို့နိုင်ငံသို့မရောက်လာသေး'ဟုလည်းကောင်း မောဂ္ဂလ္လာန်အဖွင့်ကျမ်းများ၏ အခြေအနေကို ရေးသားထားခဲ့ပါသည်။ သိရိသီလာစာရတ္ထေရ်၏ မောဂ္ဂလာယန ဗျာကရဏံ, ပဒသာဓနံ။ ရတနသိဒ္ဓိ ပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၂၁–ခုနှစ်။ (စာမျက်နှာ ဏ–ကိ)။ အဘယာရာမဆရာတော်ကြီးကလည်း– မောဂ္ဂလ္လာန် သဒ္ဒါကျမ်းသည် 'သပရိဝါရံ=အခြံအရံကျမ်းဂန်နှင့်တကွ၊ လင်္ကာယ= သီဟိုဠ်ကျွန်းမှ၊ ဣဓ=ဤမြန်မာပြည်သို့၊ န အာဂတံ= ရှေးရှေးအခါက မရောက်လာဘူးလေ' (မောဂ္ဂလ္လာန်စာကိုယ်နှင့် ပဒသာဓနစာကိုယ်လောက်သာ ရောက်ဟန် တူသည်–ဟူလို)ဟု ရေးသားတော်မူခဲ့၏။ အဘယာရာမဆရာတော်၏ မောဂ္ဂလ္လာန်နိသျ၊ ဒုတိယတွဲ။ ၁၃၃၃–ခုနှစ်။ (စာမျက် နှာ–၄၆၂)။ အဘယာရာမဆရာတော်ကြီးသည် မောဂ္ဂလ္လာန်အဖွင့်ကျမ်းများကိုရရှိနိုင်ရန် သီဟိုဠ်ကျွန်း၌ အေဒီ ၁၉၂၂– ခုနှစ်မှစ၍ ခြောက်နှစ်တိုင်တိုင်နေထိုင်သီတင်းသုံးပြီး ခဲယဉ်းပင်ပန်းကြီးစွာ လိုက်လံရှာဖွေတော်မူခဲ့ရ၏။ အဘယာရာမ ဆရာတော်ကြီး၏ထေရုပ္ပတ္တိ။ သုဓမ္မဝတီစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၂၀–ပြည့်နှစ်။ (စာမျက်နှာ–၆၆)။ ထိုသို့ ပျောက်ကွယ် လုပြီဟုထင်မှတ်ခဲ့ကြသော မောဂ္ဂလ္လာန်အဖွင့်ကျမ်းများတွင် 'ပဒသာဓနေ၊ သမ္ဗန္ဓစိန္တာ၊ သာရတ္ထဝိလာသိနီ၊ ပဉ္စိကာပဒီပ' စသောကျမ်းတို့မှာ အဘယာရာမဆရာတော်ကြီး၏ကျေးဇူးကြောင့် မြန်မာနိုင်ငံသို့ရောက်ရှိခဲ့ပြီး မြန်မာအက္ခရာသို့ ဖလှယ်ကာ မြန်မာဘာသာအနက် ပြန်ဆိုပုံနှိပ်ထားပြီးဖြစ်သည်။ အဘယာရာမဆရာတော်ကြီး၏ ပဒသာဓနေ၊ ပဒသာဓန ဋီကာ၊ သမ္ဗန္ဓစိန္တာ၊ သမ္ဗန္ဓစိန္တာဋီကာ၊ ဗာလာဝတာရ၊ ဗာလာဝတာရဋီကာ၊ ဗာလာဝတာရနိဿယ (၇–ကျမ်းတွဲ)။ သက်ပန်စာပေတိုက်၊ မန္တလေးမြို့။ ၁၉၆၆–ခုနှစ်။ ပယောဂသိဒ္ဓိကျမ်းကိုမူကား မင်းကွန်းတိပိဋကဓရဆရာတော်ဘုရားကြီး တည်းဖြတ်၍ ထိုကျမ်း၏နိဿယကို မန္တလေးမြို့ ဗန်းမော်ကျောင်းတိုက်ဆရာတော်အရှင်ကုမာရာဘိဝံသက ပြုစုတော်မူ၍ ပုံနှိပ်ပြီးဖြစ်ပါသည်။

ဤနေရာ၌ အရှင်ဉာဏအဖို့ မောဂ္ဂလ္လာန်နှင့်စပ်၍ကြည့်စရာမှာ– နိဿယကျမ်းအနေဖြင့် သက္ကရာဇ်–၁၂၂၉ (အေဒီ–၁၈၆၇)ခုနှစ်တွင် ပထမဘုရားကြီးဆရာတော်ကြီးရေးစီရင်သော ဝုတ္တိမောဂ္ဂလာန်နိဿယကိုသာ ကြည့်ရှုရန်ရှိလေသည်။*၁

သက္ကတဘာသာသင်ဖြစ်သလော

အရှင်ဉာဏသည် မောဂ္ဂလ္လာန်အဖွင့်ကျမ်းရေးသားရန်အတွက် သန့်ရှင်းသောမောဂ္ဂလ္လာန်ကျမ်းနှင့် ယင်း၏အမှီ ဋီကာ၊ နိဿျစသည်တို့ကိုရရှိပြီဆိုပါက မောဂ္ဂလ္လာန်ဆရာကြည့်ရှုခဲ့သောဆိုင်ရာသက္ကတကျမ်းဂန်တို့ကိုကြည့်ရှုနိုင်လောက်အောင် သက္ကတဘာသာကိုလည်း တတ်ကျွမ်းဖို့ လိုအပ်နေပေသည်။ သို့ဖြစ်လျှင် ထိုအချိန်က အရှင်ဉာဏသည် သက္ကတဘာသာကိုသင်ယူခဲ့ပါသလော?ဟု မေးဖွယ်ရှိ၏။

အရှင်ဉာဏနှင့်အလွန်ရင်းနှီးကျွမ်းဝင်သော ယောမင်းကြီးဦးဘိုးလှိုင်သည် သက္ကတဘာသာနှင့်မစိမ်းသောပုဂ္ဂိုလ်ကြီးဖြစ်၏။ တဖန် နောင်တော်ကြီးသဖွယ်ရင်းနှီးကျွမ်းဝင်သောအရှင်ဝိသုဒ္ဓါစာရ(မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး)သည်လည်း သက္ကတဘာသာ၌ကျွမ်းကျင်သောအရှင်မြတ်ကြီးဖြစ်၏။ အရှင်ဉာဏအဖို့ ထိုပုဂ္ဂိုလ်ကြီးတို့ထံမှ သက္ကတဘာသာကိုနည်းယူကာ လေ့လာလိုက်စားမည်ဆိုပါက လိုက်စားနိုင်သည်။

အရှင်ဉာဏသည် ထိုစဉ်က သက္ကတဘာသာသင်ရန် သက္ကတဘာသာစာအုပ်စာတမ်းများကိုရှာဖွေပြင်ဆင်ပြီးကာမှ သက္ကတစာသင်လျှင် ဗြာဟ္မဏပုဏ္ဏားတို့၏တပည့်နောက်လိုက်ဖြစ်သွားမည်ဟူ၍ အတွေးအခေါ်ကြောင့် သက္ကတကိုမသင်တော့ဘဲ စွန့်လွှတ်ခဲ့သည်ဟူ၍လည်း အမှတ်အသားတစ်ရပ်ရှိ၏။*၂

သက္ကတသင်လျှင် ပုဏ္ဏားဗြာဟ္မဏ၏တပည့်ဖြစ်မည်ဟူသောကြောင့် သက္ကတမသင်ဟု ဆိုခြင်းမှာ ထင်မြင်ယူဆချက်မျှဖြစ်ပေလိမ့်မည်။ အလွန်ခေတ်မီ၍ အသိဉာဏ်ထက်မြက်သော အရှင်ဉာဏမှာ ဇာတိအန္ဓယ်ကပင် ပုဏ္ဏားဇာတ်မကောင်းဟုအယူရှိခဲ့သဖြင့် ထိုအကြောင်းမျှလောက်ဖြင့် သက္ကတကိုမသင်ဘဲနေခဲ့လိမ့်မည်မဟုတ်။ စင်စစ် ထိုစဉ်အခါက စံကျောင်းဆရာတော်ကြီး၏

*၁ အရှင်ဉာဏပင်တိုက်တွန်းသဖြင့် ပြုစုခြင်းဖြစ်သည်ဟုယူဆနိုင်သော မောဂ္ဂလ္လာန်နိဿယကျမ်းတစ်စောင်ကို ၁၂၅၀-ပြည့်နှစ် (အေဒီ–၁၈၈၈)ခုနှစ်တွင် စာတော်ပြင်နေမျိုးမင်္ဂကျော်သူဦးဘား ပြုစုခဲ့ပေသေး၏။ ဦးယမ်၏ ပိဋကတ်တော်သမိုင်း (အပိုဒ် ၉၄၁–၉၄၇)။ ၁၉၀၅–ခုနှစ်။ (စာမျက်နှာ–၁၉၈)။

*၂ လယ်တီဦးလှပိုင်က ‘လယ်တီဆရာတော်ကြီးသည် ပဉ္စမကျော်ဦးကြီးဖေကို ‘ငါငယ်ငယ် စာချဘုန်းကြီးလုပ်စဉ်က သက္ကတသင်ချင်လိုက်တာကွာ မပြောပါနဲ့တော့၊ ဒါနဲ့ သက္ကတစာအုပ်တွေ ရှာတာပေါ့၊ ရပါရောကွာ။ အဲဒီတော့ ငါ့စိတ်ထဲ စဉ်းစားမိသည်မှာ အင်း–သက္ကတဆိုတာ ပုဏ္ဏားတွေရေးသားတဲ့ ပုဏ္ဏားစာတွေပဲ၊ ခုဘဝ သာသနာနဲ့ကြုံကြိုက်လို့ ဘုရားတပည့်ဖြစ်နေတယ်။ ငါဟာ လွန်ခဲ့တဲ့ကမ္ဘာ့ကမ္ဘာ၊ ဘဝဘဝါတွေက သက္ကတစာတွေသင်ပြီး ပုဏ္ဏားတပည့်ဖြစ်ခဲ့ရတာတွေ ရေတွက်နိုင်မှာမဟုတ်ဘူး။ ယခုဘဝကံကောင်းထောက်မလို့ ပိဋကတ်တွေသင်ပြီး ဘုရားတပည့်ဖြစ်ရတယ်။ ဘုရားသာသနာမှာနေပြီး ဘုရားတပည့်လုပ်ပါတော့မယ်။ သက္ကတစာတွေသင်ပြီး ပုဏ္ဏားတပည့် မလုပ်တော့ဘူးဟု ဆုံးဖြတ်ကာ မသင်လိုတော့ဘဲ သက္ကတစာအုပ်တွေအကုန်လုံးလွှတ်ပစ်လိုက်တာပဲကွဲ့’ဟု မိန့်တော်မူခဲ့ကြောင်း ရေးသားထား၏။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ပုဂ္ဂိုလ်ကျော်များ။ (စာမျက်နှာ–၂၃၀)။

ဘုန်းရိပ်၌ခိုလှုံနေရသောအခါဖြစ်၍ စံကျောင်းဆရာတော်ကြီး၏ဆန္ဒကိုငဲ့ကွက်ပြီး သက္ကတမသင် ခဲ့ခြင်းသာ ဖြစ်ပေလိမ့်မည်။

ဤအကြောင်းနှင့်စပ်၍ လယ်တီဆရာတော်ကြီးသည် မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးထံ တော်သို့လျှောက်ထားခဲ့သော လယ်တီစာသင်နည်းလျှောက်ထားလွှာတွင် သက္ကတဘာသာ သင်ယူမှုနှင့်စပ်၍လည်း မှတ်သားသင့်သောအချက်တစ်ရပ်ပါရှိသည်။ ထိုအချက်မှာ–

> 'အာကတိဂိုဏ်း, ပိသောဒရာဒိဂိုဏ်း နှစ်ဂိုဏ်းကိုလျှောက်လိုက်သည်မှာ မောဂ္ဂလ္လာန်၌ ၎င်းနှစ်ဂိုဏ်းအမြွက်ပါရှိသည်ဖြစ်၍ လျှောက်လိုက်ပါသည်။ ဓာတ်, ပစ္စည်း, ဝိဂြိုဟ်ကြဲဆိုမှု၌ သက္ကတဗျာကရဏ်းကျမ်းတို့ကိုတတ်ကျွမ်းပေလျှင် ဆိုဖွယ် ရာမရှိပေပြီ'[*၁] ဟု ရေးသားထားတော်မူ၏။

ထိုစာအရပင် 'ယခုအခါ သက္ကတကိုမတတ်ကျွမ်းသည့်အတွက် ပိသောဒရာဒိစသော ဂိုဏ်းတို့အကြောင်းကိုလျှောက်ထားနေရပြီ'ဟု အဓိပ္ပာယ်တစ်မျိုးကောက်ယူနိုင်လေရာ၊ ဤနေရာ တွင် သက္ကတမသင်ယူခဲ့သဖြင့် အကျိုးများသင့်သလောက်မများပုံကို လယ်တီဆရာတော်ကြီး ကိုယ်တော်တိုင်၏ဖွင့်ဟဝန်ခံချက်ဟု မှတ်ယူလျှင်လည်း မှတ်ယူနိုင်ပါသည်။

မောဂ္ဂလ္လာန်ကျမ်း၏အဖွင့်ကိုရေးမည့် အရှင်ဉာဏသည် မောဂ္ဂလ္လာန်သဒ္ဒါကျမ်း၏ ပဌမ ကဏ္ဍဖြစ်သော သညာဒိကဏ္ဍ(သုတ်စဉ်–၄၇)[*၂] လာ 'တဒမိနာဒီနိ'သုတ်ကို ကျော်လွှားဖွင့်ဆိုခွင့် ရှိမည်မဟုတ်ပေ။ ထို(သုတ်စဉ်–၄၇) တဒမိနာဒီနိသုတ်သည်ကား ပါဏိနီ(ပါ၊၆၊၃၊၁၀၉။), စာန္ဒြ (စံ၊၅၊၂၊၁၂၇။)စသော သက္ကတသဒ္ဒါကျမ်းတို့၌ 'ပိသောဒရာဒိဂိုဏ်း'ဟုလည်းကောင်း၊ မုဒ္ဓဗောဓ သက္ကတသဒ္ဒါကျမ်း(မု၊၂၊၃၄။)၌ 'မနီသာဒိဂိုဏ်း'ဟုလည်းကောင်း၊ ကာတန္တ္တသက္ကတသဒ္ဒါ(ကာ၊ ၂၊၂၇။)၌ 'လောကောပစာရဂိုဏ်း'ဟုလည်းကောင်း ဖော်ပြထားကြသည်။[*၃] ထိုပိသောဒရာဒိ ဂိုဏ်းကိုနားလည်ရန် ပါဏိနီသက္ကတသဒ္ဒါကိုဖြစ်စေ၊ စာန္ဒြ(စန်းကျမ်း)သက္ကတသဒ္ဒါကိုဖြစ်စေ၊ အခြားသောမောဂ္ဂလ္လာန်ဆရာညွှန်ပြသော သက္ကတသဒ္ဒါကျမ်းများကိုဖြစ်စေ ကြည့်ရှုရန်လို၏။ သို့ဖြစ်၍ သက္ကတမသင်ခဲ့ဘူးသောအရှင်ဉာဏအဖို့မှာ သက္ကတကျမ်းဂန်တို့ကိုကြည့်ရှုနိုင်သော အရှင်ဝိသုဒ္ဓါစာရ(မဟာဝိသုဒ္ဓါရာမဆရာတော်ကြီး)ထံ အကူအညီတောင်းခံခဲ့ရ၏။

ထို့ပြင်လည်း အခြင်းရာတူဇာတ်တူသဒ္ဒါကိုအစဉ်မှီး၍စီရင်ရသော အာကတိဂိုဏ်းအကြောင်း ကို နားလည်ရန်မှာလည်း ပိသောဒရာဒိဂိုဏ်းနည်းတူပင် သက္ကတသဒ္ဒါကျမ်းတို့ကိုကြည့်ရှုနိုင် ပါမှ အတိအကျသိနိုင်မည်ဖြစ်၏။ အထက်ပါစကားရပ်တို့အရ အရှင်ဉာဏသည် သက္ကတ မသင်ခဲ့သည်မှာကား အထင်အရှားဖြစ်သည်။

---

[*၁] လယ်တီဆရာတော်ကြီး၏ သာသနဝိသောဓနီကျမ်း၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၂၂၄)။

[*၂] နိရုတ္တိဒီပနီပါဌ်၌ တဒမိနာဒီနိ–သည် (သုတ်စဉ်–၃၇)ဖြစ်သည်။ လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီပါဌ်။ ၁၉၇၀–ပြည့် နှစ်။ (စာမျက်နှာ–၁၅)။

[*၃] အဘယာရာမဆရာတော်ကြီး၏ မောဂ္ဂလ္လာန်နိဿယ၊ ပဌမတွဲ။ ၁၃၃၂–ခုနှစ်။ (စာမျက်နှာ–၉၉၊ ၁၀၀)။

သက္ကတမသင်ခဲ့ဆိုရာတွင်လည်း လုံးလုံးမသင်ခဲ့သလော၊ သို့မဟုတ် သင်ရန်ပြင်ဆင်ပြီးမှ မသင်တော့ဟုစွန့်ခဲ့ခြင်းလောဆိုသည်ကိုကား အတိအကျမဆိုနိုင်။ သို့သော် အရှင်ဉာဏသည် အာဂပုဂ္ဂိုလ်ဖြစ်သည့်အတိုင်း ပါဠိဘာသာ၌ကျွမ်းကျင်နိုင်နင်းပြီးသောပုဂ္ဂိုလ်ဖြစ်ပါ၍ သက္ကတဘာသာကိုသင်မည်ဆိုလျှင် အထူးတလည်အားထုတ်ရမည်မဟုတ်၊ ကြည့်ရှုကာ ကြံစည်ကာမျှဖြင့် သက္ကတဘာသာကိုကျွမ်းကျင်နိုင်နင်းပေလိမ့်မည်။ မည်သို့ပင်ဆိုစေ အရှင်ဉာဏသည် ပါဠိ,သက္ကတဘာသာနှစ်မျိုးစလုံး၌ ကျွမ်းကျင်နိုင်နင်းသော စွယ်စုံရပုဂ္ဂိုလ်တို့၏လေ့ကျက်ရာဖြစ်သော မောဂ္ဂလ္လာန်သဒ္ဒါကျမ်းပင်လယ်ပြင်ကြီးကို ပါဠိဘာသာသက်သက်(သုဒ္ဓမာဂဓိကပုဂ္ဂိုလ်) အဖြစ်ဖြင့် ကူးခတ်ရန်ကြိုးပမ်းအားထုတ်တော်မူခဲ့၏။ ထိုစိတ်ဓာတ်ကား သာမန်ဖွဲ့လုံ့လစိတ်ဓာတ်မဟုတ်၊ အင်မတန်ဖွဲ့ခတ်သောပါရမီရှင်တို့၏စိတ်ဓာတ်မျိုးဖြစ်လေသည်။*၁ မောဂ္ဂလ္လာန်သဒ္ဒါကျမ်း၏ ခက်ခဲမှု, နက်နဲမှု, ကျယ်ဝန်းမှုကိုသိလေလေ ထိုမောဂ္ဂလ္လာန်ကျမ်း၏အဖွင့်ကျမ်းကိုရေးရန် လေ့လာအားထုတ်နေသော အရှင်ဉာဏ၏ဖွဲ့လုံ့လသည်လည်း လွန်စွာမှ ကြည်ညိုဖို့ကောင်းလေလေဖြစ်တော့သည်။

**သက္ကတမတတ်သော်လည်း ဝမ်းမနည်း**

သက္ကတဘာသာနှင့်စပ်လျဉ်း၍ အရှင်ဉာဏသည် အရှင်ဝိသုဒ္ဓါစာရ(မဟာဝိသုဒ္ဓါရာမဆရာတော်ကြီး)ထံသို့ လျှောက်ထားသောစကားတို့တွင်–

> ‘သက္ကတဗျာကရဏ်းကျမ်းတို့ပင် မကျွမ်းကျင်သော်လည်း ပိဋကတ်ကျမ်းဂန်သည် အလွန်ကျယ်ဝန်းများပြားလှသည်ဖြစ်၍ ပိဋကတ်ကျမ်းဂန်နှင့်များလှ၍ရှိလျှင်လည်း ဓာတ်,ပစ္စည်း,ဝိဂြိုဟ်အမှန်အကန် ကြံနိုင်ဖွယ်များပါ၏’*၂

ဟူ၍ရေးသားထားလေရာ အရှင်ဉာဏသည် သက္ကတသဒ္ဒါစသော ပရသတ္တကျမ်းဂန်တို့ကို အားကိုးအားထားမပြုဘဲ ပိဋကတ်ပါဠိဘာသာစာပေကိုသာ အမွန်အမြတ်ထား၍ အရေးတယူပြုတော်မူကြောင်းမှာ အထင်အရှားဖြစ်လေသည်။

အထက်ပါ အရှင်ဉာဏရေးသားထားသောစကားရပ်တို့ကိုထောက်ဆပါက အရှင်သည် သက္ကတမတတ်သော်လည်း ဝမ်းမနည်း၊ ဂုဏ်ငယ်သည်ဟုမထင်။ ပါဠိတစ်ဘာသာတည်းကို ကျွမ်းကျင်နိုင်နင်းစွာတတ်ခြင်းဖြင့် သက္ကတဘာသာစသော အခြားဘာသန္တရလုပ်ငန်းကိစ္စတို့၌ သက္ကတဘာသာတတ်သူတို့ဆောင်ရွက်သလို ဆောင်ရွက်နိုင်လိမ့်မည်။ ထိုသက္ကတတတ်သူတို့ထက် ပို၍ပင်ဆောင်ရွက်နိုင်လိမ့်ဦးမည်ဟု စိတ်ထားရှိကြောင်းမှာ ထင်ရှားနေပေသည်။ သို့ဖြစ်ပါ၍ အရှင်ဉာဏသည် သက္ကတဘာသာကိုသင်ရန်ကြံရွယ်ပြီးမှ မသင်တော့ဘဲစွန့်ပစ်ခဲ့ခြင်းလော၊ သို့မဟုတ် သင်ရန်လုံးဝမရည်ရွယ်ခဲ့သလောဟူသော အမေးပုစ္ဆာတို့ကိုဖြေရန်ထား၍ အရှင်ဉာဏ သက္ကတဘာသာမသင်ခဲ့ဖူးသည်မှာကား အမှန်ဖြစ်ကြောင်းဖော်ပြအပ်ပါသည်။

---

*၁ ဝဏ္ဏကျော်ထင်ဆရာကြီးဦးသာတင်(ဆရာမာဃ)၏ မိန့်ကြားချက်ဖြစ်သည်။

*၂ လယ်တီဆရာတော်၏ သာသနဝိသောဓနီ၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၂၂၄)။

**ယောမင်းကြီး၏ သဒ္ဒသင်္ဂဟကျမ်း**

အရှင်ဉာဏသည် မောဂ္ဂလ္လာန်သဒ္ဒါကျမ်းကိုဖွင့်ဆိုသော သဒ္ဒါကျမ်းစာတစ်စောင်ရေးသားရန်အတွက် ယောမင်းကြီးရေးသားလျက်ရှိသော သဒ္ဒသင်္ဂဟကျမ်းကိုလည်း ယောမင်းကြီးထံမှ တောင်းယူကြည့်ရှုတော်မူခဲ့ပါသည်။

ယောမင်းကြီးသည် သက္ကတစာပေကို ရွှေစလွယ်ရွှေဗောင်းရ သီရိ၊ သီရိပဏ္ဍိတမဟာရာဇဂုရုဘွဲ့တံဆိပ်ရ ပညာရှိဝဇရဗာသိမည်သော ပုရောဟိတ်ဆရာကြီးထံမှ လေ့လာသင်ယူခဲ့၏။ ယောမင်းကြီးသည် အိမ်ရှေ့စံကနောင်မင်းသားကြီး၏အမိန့်တော်ဖြင့် ပညာရှိပုရောဟိတ်ဆရာကြီး ဝဇရဗာသိ၏အကူအညီယူကာ သက္ကတဘာသာရေး လီလာဝတီဂဏန်းသင်္ချာကျမ်းကို သက္ကရာဇ်–၁၂၂၆ (အေဒီ–၁၈၆၄)ခုနှစ်ကရေးသားခဲ့၏။ သက္ကတဘာသာရေး ဓာတုပြသံဓာတ်ကျမ်းကိုလည်း သက္ကရာဇ်–၁၂၃၁ (အေဒီ–၁၈၆၉)ခုနှစ်၌ဘာသာပြန်ဆိုခဲ့၏။ မင်းတုန်းမင်း၏အမိန့်တော်ဖြင့် သက္ကတဘာသာကျမ်းဂန်များ၊ ပိဋကတ်ကျမ်းဂန်များနှင့် အနောက်တိုင်းလာတိရစ္ဆာန်အကြောင်းစာတို့ကို ကိုးကား၍ အဿဗေဒကျမ်း(မြင်းကျမ်း)ကိုလည်း သက္ကရာဇ်၁၂၃၃–ခုနှစ်၊ ဝါခေါင်လ (အေဒီ ၁၈၇၁–ခုနှစ်၊ ဇူလိုင်လ)၌ရေးသားခဲ့၏။ ထို့ပြင် ယောမင်းကြီးသည် သက္ကရာဇ်–၁၂၃၁ (အေဒီ–၁၈၆၉)ခုနှစ်ကပင် သက္ကတဘာသာ၊ မဂဓဘာသာသဒ္ဒါကျမ်းအမျိုးမျိုးတို့မှ စကားချင်းထပ်သည်တို့ကိုပယ်နှုတ်ပြီးလျှင် သွတ်သွင်းသင့်သည့်ထေရဝါဒတို့ကိုသွတ်သွင်း၍ အရှင်ဗုဒ္ဓဃောသသည် သင်္ဂဟအဋ္ဌကထာကိုရေးသားစီရင်တော်မူသကဲ့သို့ သဒ္ဒသင်္ဂဟပါဠိသဒ္ဒါကျမ်းကြီး*၁ ကို ရေးသားပြုစုတော်မူခဲ့ရာ သက္ကရာဇ်–၁၂၃၅(အေဒီ–၁၈၇၃)ခုနှစ် လယ်တီဆရာတော်ကြီး လောင်းလျာအရှင်ဉာဏ စံကျောင်းတိုက်၌ တိုက်စာချအဖြစ်သို့ရောက်ရှိသောအခါ၌ သဒ္ဒသင်္ဂဟကျမ်းကို ရေးသားပြီးဆုံးခဲ့လေသည်။

ပါဠိသဒ္ဒါစာပေသမိုင်း၌ ကိုယ်ပိုင်သုတ်၊ ဝုတ္တိ၊ ဥဒါဟရဏ်တို့ဖြင့်စီရင်ရေးသားထားသော ကစ္စည်းသဒ္ဒါကြီး၊ မောဂ္ဂလ္လာနသဒ္ဒါကြီး၊ သဒ္ဒနီတိသဒ္ဒါကြီးတို့ပေါ်ပေါက်ခဲ့ပြီးနောက်၊ ယောမင်းကြီးယခုရေးသားသော သဒ္ဒသင်္ဂဟကျမ်းသည် စတုတ္ထမြောက် နောက်ဆုံးပေါ် ပါဠိသဒ္ဒါကျမ်းပင်ဖြစ်သည်။ သဒ္ဒသင်္ဂဟကျမ်းသည် သင်္ဂဟ(အကျဉ်းချုံးကျမ်း)ဟုဆိုသော်လည်း အဘိဓမ္မတ္ထသင်္ဂဟသင်္ဂြိုဟ်ကဲ့သို့ ပါဠိသဒ္ဒါကျမ်းအားလုံး၏အဆိုအမိန့်တို့ကို သိမ်းကြုံးယူ၍ အကျဉ်းချုံ့ရေးအပ်သော သင်္ဂဟကျမ်းငယ်မျိုးမဟုတ်၊ သင်္ဂဟအဋ္ဌကထာကြီးကဲ့သို့ သိုက်သိုက်ဝန်းဝန်းပြည့်ပြည့်စုံစုံ လိုရင်းရောက်အောင်ပြဆိုသော သင်္ဂဟကျမ်းကြီးမျိုးသာဖြစ်၏။

သဒ္ဒသင်္ဂဟကျမ်းကိုပေမူဖြင့်ရေတွက်လျှင် ၁၂–ကြောင်းရေးပေဖြင့် ၂၄–အင်္ဂါ ၂–ချပ်ရှိ၏။ သဒ္ဒသင်္ဂဟကျမ်း၌ အခန်း(၈)ခန်းခွဲထားပြီး တစ်ခန်းချင်း၏ပေအင်္ဂါအရေအတွက်မှာ–

၁၊ သန္ဓိအခန်း– 'က' မှ 'ခဲ' = ၁–အင်္ဂါ၊ ၈–ချပ်၊

၂။ နာမ်အခန်း– 'ခေါ' မှ 'ဆာ' = ၄–အင်္ဂါ၊ ၆–ချပ်၊

---

*၁ ယောမင်းကြီးဦးဘိုးလှိုင်၏ ဥတုဘောဇနသင်္ဂဟကျမ်း။ ၁၉၈၃–ခုနှစ်။ (စာမျက်နှာ–ဏ)။

၃။ ကာရကအခန်း– 'ဆိ' မှ 'ဈိ' = ၂–အင်္ဂါ၊ ၂–ချပ်၊
၄။ သမာသ်အခန်း– 'ဈု' မှ 'ဌော်' = ၃ အင်္ဂါ၊ ၆–ချပ်၊
၅။ တဒ္ဓိတ်အခန်း– 'ဋ္ဌံ' မှ 'ထံ' = ၅ အင်္ဂါ၊ ၁–ချပ်၊
၆။ အာချာတ်အခန်း–'ထား' မှ 'နူ' = ၂ အင်္ဂါ၊ ၇–ချပ်၊
၇။ ကိတ်အခန်း– 'နေ' မှ 'ဖူ' = ၂ အင်္ဂါ၊
၈။ ဥဏာဒ်အခန်း– 'ဖေ' မှ 'မာ' = ၂ အင်္ဂါ၊ ၈–ချပ် တို့ဖြစ်ကြပါသည်။*၁

ယောမင်းကြီးသည် သဒ္ဒသင်္ဂဟကျမ်းကိုရေးသားရာ၌ အစဉ်အလာသုံးစွဲနေသော ပါဠိသဒ္ဒါကျမ်းကြီးများကိုသာမက သက္ကတဘာသာရေးဖြစ်သော သုသုတကျမ်း၊ ဝိဏ္ဏုပုရာဏ်ကျမ်း၊ ဒဗ္ဗဂုဏာပကာသကျမ်း၊ ဇောတိတတ္တကျမ်း၊ သဒ္ဒိန္ဒုသေခရကျမ်း၊ ပါဏိနီကျမ်းတို့နှင့် သိဒ္ဓန္တကောမုဒီစသော သက္ကတကျမ်းကိုမှ ကြည့်ရှုရေးသားခဲ့၏။ သက္ကတသဒ္ဒါကျမ်းများကို များစွာအမှီပြု၍ ရေးသားအပ်သောကျမ်းဖြစ်သဖြင့် အသုံးအနှုန်းများ သက္ကတဆန်နေသည်ကို တွေ့ရသည်။ ယောမင်းကြီး၏လက်ရာဖြစ်သည့်အတိုင်း တိကျပြတ်သားသော ဆုံးဖြတ်ချက်များနှင့် ရှေးရေးသဒ္ဒါကျမ်းတို့၏အဆိုအမိန့်များအပေါ်၌ စီစစ်ချက်များကိုတွေ့ရှိရသည်။*၂

သဒ္ဒသင်္ဂဟကျမ်း၌ အဋ္ဌကထာဋီကာကြီးတို့၌လာသော 'ဘဂဝါ'ပုဒ်၊ 'ဂိဇ္ဈကူဋ'ပုဒ်၊ 'ဥက္ကဋ္ဌာ'ပုဒ် စသည့်ပုဒ်တို့ကိုဖွင့်ဆိုရာတွင် လက်စွဲပြု၍သုံးနှုန်းအပ်သော ပိသောဒရာဒိဂိုဏ်း၊ သာကပတ္ထိဝါဒိဂိုဏ်း, မူလဝိဘုဇာဒိဂိုဏ်းဟူသည်တို့ကို အဋ္ဌကထာ,ဋီကာတို့၌ တွေ့မြင်ရလင့်ကစား ထိုပိသောဒရာဒိဂိုဏ်းစသည်တို့၏အကြောင်းကို မြန်မာနိုင်ငံ၌ ခြေခြေမြစ်မြစ်သိသောပုဂ္ဂိုလ်များ ရှေးကနည်းပါးခဲ့ကြောင်းနှင့် သိလျှင်လည်း 'ယံ ဝါ တံ ဝါ' သိနည်းကားဖြင့် အပေါ်ရံသိရုံမျှ သိခြင်းမျိုးသာဖြစ်လိမ့်မည်'ဟူသော သဘောပေါ်လွင်စေရန် ယောမင်းကြီးက သဒ္ဒသင်္ဂဟကျမ်း၌– 'မြမ္မဒေသေ အဇ္ဇတနာပိ န ဇာနန္တိ၊ တသ္မာ အဋ္ဌကထာသု ဝုတ္တံ ပိသောဒရာဒိလက္ခဏံ ယံ ဝါ တံ ဝါ ဝဒန္တိ' ဟူ၍ ရေးသားခဲ့၏။*၃

ယောမင်းကြီးသည် သဒ္ဒသင်္ဂဟကျမ်းကိုရေးပြီးသည့်အခါ ပထမရွှေကျင်ဆရာတော်ကြီးသည် သက္ကတဘာသာ၌လည်းနှံ့စပ်ကျွမ်းကျင်သည့်အတွက် ပြင်ဆင်ရန်အပ်နှံခြင်းဖြစ်၏။ ပထမ

*၁ ဤပေမူသည် ဆရာတော်အရှင်သီလာနန္ဒာဘိဝံသထံတော်၌ရှိနေသောပေမူဖြစ်ပြီး ၁၂၅၅–ခုနှစ်၊ ဝါခေါင်လဆန်း ၁၃–ရက် (အေဒီ–၂၄၊ ဩဂုတ်လ၊ ၁၈၉၃)ခုနှစ်တွင် မိုးကောင်းတိုက်ဦးနန္ဒိယက ကူးယူသောမူဖြစ်သည်။

*၂ ဆရာတော်အရှင်သီလာနန္ဒာဘိဝံသ (၂၂–၄–၁၉၇၆)နေ့က မိန့်ကြားချက်ဖြစ်ပါသည်။ တိပိဋကပါဠိမြန်မာအဘိဓာန်၊ အတွဲ–၁။ (စာမျက်နှာ–၅၆)တွင်လည်း 'ယောမင်းကြီး၏သဒ္ဒသင်္ဂဟကျမ်းသည် မြန်မာတို့ဂုဏ်ယူထိုက်သော ကျမ်းတစ်စောင်ဖြစ်၏'–ဟု ဖော်ပြထားပါသည်။

*၃ ႏဘာယာရာမဆရာတော်၏ မောဂ္ဂလ္လာန်နိသျ၊ ပထမတွဲ–လာ ဆရာတော်အရှင်သီလာနန္ဒာဘိဝံသ၏အမှာစာ (စာမျက်နှာ–၅)ကိုရှုပါ။ ထို့ပြင် သဒ္ဒသင်္ဂဟကျမ်းနှင့်စပ်၍ ဆရာတော်အရှင်သီလာနန္ဒာဘိဝံသက 'သဒ္ဒသင်္ဂဟကျမ်းက အစီအကုံးအဖွဲ့အနွဲ့ သိပ်မကောင်း၊ ဝိဘတ်အထားအသိုတောင် အချို့နေရာမမှန်ဘူး။ Philology (ဘာသာဗေဒ)က သိပ်ကောင်းတယ်။ ပါဏိနီအဖွင့် သိဒ္ဓန္တကောမုဒီကိုကြည့်ပြီးရေးတယ်။ သိဒ္ဓန္တကောမုဒီကျမ်းဟာ သုတ်စဉ်အတိုင်း အစဉ်လိုက်ရေးတာများတယ်'ဟူ၍လည်း အမိန့်ရှိခဲ့ပါသည်။

ရွှေကျင်ဆရာတော်ကြည့်ရှုပြီးနောက် မဟာဝိသုဒ္ဓါရုံဆရာတော်လောင်းလျာ အရှင်ဝိသုဒ္ဓါစာရ ထံသို့လည်း ကြည့်ရန်ပေးပို့ခဲ့၏။ အရှင်ဝိသုဒ္ဓါစာရသည် သဒ္ဒသင်္ဂဟကျမ်း၏ ကြိယာကာရက ရှေ့နောက်ပဒ်ထားပါဠိနေကို ဉာဏ်ထင်သမျှ သန္တိဋ္ဌမဲ၍နေအောင် ခဲတံခေါ် မှင်တံနှင့်ပြင်ဆင် ပေးလိုက်သည်။ ယောမင်းကြီးကလည်း အရှင်ဝိသုဒ္ဓါစာရ၏ပြင်သမျှအချက်တို့ကို မာန်မာန မခက်ထန်ဘဲ ကညစ်နှင့်ထပ်လျက်ပြင်ဆင်ပြီးလျှင် 'အပြင်သေချာနေရာတကျရှိလှပေသည်'ဟု ချီးမွမ်းထောပနာ၍ နာမ်ကိုပြင်ပါဦးဟု အပ်လာပြန်ပါသည်။ အရှင်ဝိသုဒ္ဓါစာရသည် နာမ်တစ်အင်္ဂါ မျှလောက်ပြင်ဆင်ပြီး၍ ပုဒ်နေပါဠိသွား အနေအထားနေရာမကျ ကရောက်ကရက်ရှိလှ၍ နောင် ပညာရှိများ သုံးသပ်ကြည့်ရှုမည့်စာမဟုတ်ဟု မပြင်နိုင်ဘဲထားသည်နှင့် ပြန်၍ယူသွားပါသည်။ ဤကျမ်းနှင့်စပ်၍ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးလောင်းလျာအရှင်ဝိသုဒ္ဓါစာရက နောင်အခါ ရေးသားတော်မူသည်မှာ–

> ကျေးဖူးရှင်ရွှေကျင်ဆရာတော်ဘုရားကြီးနှင့်စကားစပ်မိကြရာ– 'ငါတို့ထံသို့ လာ၍ ပြင်ဆင်ပါ–ဟု ပို့အပ်လာ၍ကြည့်ရှုသည့်အခါ နောင်အသုံးကျမည့်စာ မဟုတ် ဟုသိ၍ ဦးပဥ္စင်းထံသို့ပေးအပ်လိုက်သည်'ဟု အမိန့်တော်ရှိသည်ကို ကြားနာရဖူး၏။ သူများရေးပြီးသောပါဠိကိုမှ အနက်မှန်အောင်မပေးတတ်သောသူသည် မာဂဓ အက္ခရာပါဠိကျမ်းဂန်ကို အဘယ်မှာမှန်ကန်အောင် သီကုံးရေးသားနိုင်လိမ့်မည်နည်း' ဟူ၍ဖြစ်သည်။*၁

အရှင်ဉာဏသည် သဒ္ဒသင်္ဂဟကျမ်းကို ယောမင်းကြီး ပုရပိုက်ပေါ်တွင်အကြမ်းရေးတင် စဉ်ကပင် ကြည့်ရှုခဲ့ရ၏။ မောဂ္ဂလာန်အဖွင့်သဒ္ဒါကျမ်းရေးသည့်အခါ အထောက်အကူဖြစ်စေရန် ရည်ရွယ်ပြီး ယောမင်းကြီး၏သဒ္ဒသင်္ဂဟကျမ်းကို ပေမူမတင်မီ ပုရပိုက်မူအဖြစ်မှာပင် တစ်မူ ကူးယူထားတော်မူခဲ့၏။ သဒ္ဒသင်္ဂဟကျမ်းနှင့်စပ်၍ လယ်တီဆရာတော်ကြီးလောင်းလျာ အရှင် ဉာဏက မဟာဝိသုဒ္ဓါရုံဆရာတော်ထံရေးပို့သောစာတစ်စောင်တွင်–

> 'ရွှေပြည်ဝန်ကြီးစီရင်သည့် သဒ္ဒသင်္ဂဟကျမ်းကို ပေမတင်မီပုရပိုက်မူတွင် ကြည့်ရှုရစဉ် ပုဒ်ပါဠိထားအရေးအသားကား နေရာမကျလှ။ သို့သော်လည်း လောကီ ဗျာကရဏ်းကျမ်းစုစုံစွာ ပါရှိပေလိမ့်မည်၊ မောဂ္ဂလ္လာန်ဒီပနီကိုစီရင်လိုသောအခါ

---

*၁ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ ဆိဒ္ဒပိဓာနနိကျမ်း။ ၁၃၂၃–ခုနှစ်။ (စာမျက်နှာ–၄၁၀)။ ဆိဒ္ဒပိဓာနနိကျမ်း၌ သဒ္ဒသင်္ဂဟ ကျမ်းကို ဝေဖန်ရေးသားသည့်အတွက် ဝိမုတ္တိရသကျမ်းကိုဝေဖန်စဉ်ကကဲ့သို့ပင် ယောမင်းကြီး၏ဆွေမျိုးစုက မခံမရပ်ဖြစ်ကာ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးနှင့်စကားဆိုရန်စီစဉ်ကြကြောင်း မှတ်တမ်းများရှိ၏။ ဦးတင်အုန်း(ရွှေသွေး)၏ ယောအတွင်းဝန် ဦးဘိုးလှိုင်အတ္ထုပ္ပတ္တိ။ ၁၉၆၀–ပြည့်နှစ်။ (စာမျက်နှာ–၈၃)။ ဆရာမောင်ထင်က သဒ္ဒသင်္ဂဟကျမ်းအကြောင်းကို မဟာ ပညာဗလ ဆရာဉာဏ်ထံမေးမြန်းရာ ဆရာဉာဏ်က– 'သဒ္ဒသင်္ဂဟကျမ်းပြုစုရာ၌ ပါဠိသဏ္ဌာန်တရောရာဖြစ်နေကြောင်း၊ ပါဠိဂတိ မမှန်ကြောင်း၊ ထို့ကြောင့် မဟာဝိသုဒ္ဓါရာမဆရာတော်က ထိုကဲ့သို့ဝေဖန်ခြင်းဖြစ်ကြောင်း အမိန့်ရှိပါသည်'ဟု ရေးသားထား၏။ ယောမင်းကြီး၏ရာဇဓမ္မသင်္ဂဟကျမ်း။ ၁၉၇၂–ခုနှစ်။ (စာမျက်နှာ ၅၀–၅၁)။ ထိုစာအုပ် (စာမျက်နှာ– ၅၁)တွင် 'သဒ္ဒသင်္ဂဟကျမ်းကို ဆရာဉာဏ်ပင်နိဒါန်းရေး၍ ဗုဒ္ဓသာသနာအဖွဲ့ ကမ္ဘာအေးကပုံနှိပ်ကြောင်း' ဆရာမောင်ထင် ရေးသားထား၏။ စင်စစ် သဒ္ဒသင်္ဂဟကျမ်းသည် ယနေ့တိုင်ပုံမနှိပ်သေး၊ ပေမူမှာသာရှိနေဆဲဖြစ်ပါသည်။

အသုံးလှလှကျပေလိမ့်မည်ဟုကြံမိ၍ ယခုရေးထားရှိနေပါသည်။ ကြံမိသည့်အတိုင်းလည်း အတော်ကြီးစုံလင်ပုံရပါပေ၏။ လိင်အဆုံးအဖြတ်စသည်ဖြင့် ကျယ်လည်းကျယ် လွယ်လည်းလွယ်သော အရာစုလည်းအတန်ပါရှိ၏။ လိင်အဆုံးအဖြတ်မှာ သဒ္ဒနီတိအရိပ်ကိုဖမ်း၍–

သတလိင်္ဂဿအတ္တဿ၊ သတလက္ခဏ ဓာရိနော။
ကေဂ်ဒဿီ ဒုမ္မေဓော၊ သတဒဿီစ ပဏ္ဍိတော။ ။

အနက်ကား–

သတလက္ခဏဓာရိနော= အရာမကသော မှတ်ကြောင်းလက္ခဏာရှိသော၊ သတလိင်္ဂဿ= အရာမကသောအကြောင်းပဝတ္တနိမိတ်ရှိသော၊ အတ္တဿ= အနက်သဘောကို၊ ဒုမ္မေဓော=ပညာမဲ့သောသူသည်၊ ကေဂ်ဒဿီ=တစ်စိတ်တစ်ဒေသကိုမြင်လေ့ရှိ၏။ ပဏ္ဍိတော စ= ပညာရှိသောသူသည်ကား၊ သတဒဿီ= အရာမကခွဲခြမ်းစိတ်ဖြာ၍ မြင်နိုင်၏။

ဤပါဠိတော်ကိုအစွဲပြု၍ သဒ္ဒပဝတ္တနိမိတ်ကို လိင်ဆိုသည်ဟု ဆုံးဖြတ်သည်ကား မသင့်လေ–[1] ဟု ရေးသားတော်မူခဲ့ပါသည်။

**နဝမမြောက်ဝါဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၃၆–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၇၄–ခုနှစ်၊ ဇွန်/ဇူလိုင်)တွင် အရှင်ဉာဏသည် မန္တလေးမြို့ မြောက်ပြင်စံကျောင်းကြီးမှာပင် နဝမမြောက်ဝါကို ကပ်ဆိုတော်မူခဲ့ပါသည်။

ထို ၁၂၃၆ (အေဒီ–၁၈၇၄)ခုနှစ်တွင် တပည့်ဖြစ်သူခင်မွန်ရွာ[2] ဇာတိ ရှင်ကေတုမာလာသည် စာတော်ပြန်ပွဲသို့ဝင်ရောက်ဖြေဆိုရာ ပထမပြန်အောင်မြင်ခဲ့ပါသည်။ ရှင်ကေတုမာလာ ပထမပြန်အောင်သဖြင့် ဆရာဖြစ်သူအရှင်ဉာဏ၏ဂုဏ်သတင်းသည်လည်း ပို၍ထင်ရှားလာ၏။ ရှင်ကေတု ပထမပြန်အောင်၍ ရှင်ကေတုမာလာ၏မိဘနှစ်ပါးဖြစ်သော ခင်မွန်ရွာနေ အဘဦးမျိုးကြွယ်၊ အမိ ဒေါ်တင်တုတ်တို့သည် ၁၂၃၇ (အေဒီ–၁၈၇၅)ခုနှစ်မှစ၍ သဿမေဓ ဆယ်ဘို့တစ်ဘို့ အခွန်ငွေနှင့် မင်းမှုမင်းစရိတ်ကြေးငွေအသေးအဖွဲ့အခွန်ခန့် လူစေအခိုင်းမရှိစေရဟု အလုံမြို့ဝန်၊ အမြင့်–၅ မြို့ဝန်၊ ရွှေပြည်ရန်အောင်မြင်းဝန်မင်း၊ မင်းကြီးမဟာသက်တော်ရှည်လက်မှတ်ရေးထိုးထားသော အမိန့်တော်စာချွန်တော်ကိုပါ ရရှိခဲ့လေသည်။[3]

---

[1] လယ်တီဆရာတော်၏ သာသနဝိသောဓနီကျမ်း။ တတိယတွဲ။ (စာမျက်နှာ–၂၁၀)။

[2] ခင်မွန်ရွာသည် ယခုအခါ စစ်ကိုင်းတိုင်း၊ ချောင်းဦးမြို့နယ်အတွင်း၌တည်ရှိ၏။

[3] ထိုစာချွန်တော်ကို ခင်မွန်ဆရာတော်ဦးကေတုမာလာသီတင်းသုံးတော်မူခဲ့သော ချောင်းဦးမြို့နယ်၊ ခင်မွန်ရွာ၊ ပဲတောင်းရပ်ရှိ ကျောင်းသစ်ကျောင်းဓေါ် မဟာဇောတိကာရာမကျောင်း၌ သိမ်းဆည်းထားရှိပါသည်။ ပထမပြန်ဘွဲ့ရသူ၏ မိဘဆွေမျိုးများကို ဈေးပွဲခွန်၊ ကင်းခွန်၊ သဿမေဓအခွန်၊ မင်းတိုင်ပင်တစ်ဆယ့်နှစ်မှုလွတ်ငြိမ်းခွင့်ပေးလေ့ရှိသည်။ မြန်မာမင်းအုပ်ချုပ်ပုံ၊ ၄။ (စာမျက်နှာ–၂၁၃)။

**ဒသမမြောက်ဝါဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၃၇–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၇၅–ခုနှစ်၊ ဇူလိုင်) တွင် အရှင်ဉာဏသည် မြောက်ပြင်စံကျောင်းတိုက်ကြီးမှာပင် ဒသမမြောက်ဝါကို ကပ်ဆိုတော်မူခဲ့ပါသည်။

ဤနှစ် သုဒ္ဓီရိမဟာဓမ္မရာဇာ သီပေါမင်းသားစာတော်ပြန်ပွဲတွင် ဝင်ရောက်ဖြေဆိုတော်မူပါသည်။ စာတော်ပြန်ပွဲကျင်းပနေသောနေရာဌာနမှာ စံကျောင်းတိုက်ကြီး၏အနီး စန္ဒာမုနိဘုရားမြောက်အာရုံခံဥယျာဉ်တောင်ဘက်၌ဆောက်လုပ်ထားသော သုဓမ္မာဇရပ်တော်၌ဖြစ်၏။ ၁၂၃၇–ခုနှစ်၊ နယုန်လဆန်း ၁၅–ရက် (အေဒီ–၁၈၊ ဇွန်လ၊ ၁၈၇၅)ခုနှစ် သီပေါမင်းသား ရွှေနန်းတော်တွင်း တောင်တော်ကျောင်းမှစာပြန်ရန် သုဓမ္မာဇရပ်တော်သို့ထွက်တော်မူသောအခမ်းအနားကား အလွန်ကြီးကျယ်စည်ကားလှပေ၏။ သက်တော် ၁၇–နှစ်အရွယ် သီပေါမင်းသားကလေးကိုလည်း မြင်ဖူးလို၍ အုတ်အုတ်ကျက်ကျက်လာရောက်ကြည့်ရှုကြသည်မှာ စံကျောင်းတိုက်ကြီးအနီးတစ်ဝိုက်၌ ရဟန်းရှင်လူပရိသတ်များ ကြက်ပျံမကျအောင်စည်ကားလှပေသည်။[*၁]

**ကောဒသမဝါဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၃၈–ခုနှစ်၊ ဝါဆိုလ(အေဒီ ၁၈၇၆–ခုနှစ်၊ဇူလိုင်လ)တွင် အရှင်ဉာဏသည် မြောက်ပြင်စံကျောင်းတိုက်ကြီးမှာပင် (၁၁) ကြိမ်မြောက် ကောဒသမဝါကို ကပ်ဆိုတော်မူပါသည်။ ထိုရဟန်း (၁၁) ဝါအရတွင် အရှင်ဉာဏသည် မင်းတုန်းမင်းကြီး၏ဆွမ်းဆန်တော်အထောက်အပံ့ကိုအလှူခံယူရရှိတော်မူသော ပထမစာတော်ချဓမ္မာစရိယအဖြစ်သို့ရောက်ရှိတော်မူခဲ့ပါသည်။

**စာချပုဂ္ဂိုလ်ရွေးချယ်ပုံ**

ပထမစာတော်ချဖြစ်ပုံကား စာချတန်းစာမေးပွဲရှိ၍ ထိုစာမေးပွဲ၌ဝင်ရောက်ဖြေဆိုသောကြောင့် စာချဘုန်းကြီးဖြစ်ရခြင်းမျိုးမဟုတ်။ ရတနာပုံမန္တလေးခေတ်တွင် စာချတန်းစာမေးပွဲဟူ၍မရှိ။ ထိုခေတ်က စာချဘုန်းကြီးတစ်ပါး စာပေပို့ချမှုကာလကြာမြင့်လာသည့်အခါ စာလိုက်သံဃာများပြား, စာချပုံဂုဏ်သတင်းကျော်ကြားလျှင် စာချစစ်တမ်းအဖွဲ့ကပင့်ဖိတ်၍ စစ်ဆေးပြီးသည့်အခါ စာချအရည်အချင်းကိုလိုက်၍ ဘုရင့်ဆွမ်းဆန်လှူဒါန်းခြင်းခံယူရသော စာတော်ချပုဂ္ဂိုလ်အဖြစ်သို့ ရောက်ရှိခြင်းမျိုးသာဖြစ်သည်။

မင်းတုန်းမင်းကြီးသည် သာသနာရေးရာစီမံဆောင်ရွက်နိုင်ရန်အတွက် မဟာဒါန်ဝန်[*၂] ခန့်ထားပြီး ထိုပုဂ္ဂိုလ်က ရွှေမြို့တော်လေးပြင်လေးရပ်နှင့်လှည့်လည်ကာ စာချဘုန်းကြီးများ

---

[*၁] သီပေါမင်းသားစာပြန်ထွက်တော်မူခန်းကို ဦးမာနိတသိရီနှင့် ဦးနန္ဒမာလာဘိဝံသတို့၏ စံကင်းဆရာတော်ဂုဏ္ဍဝတ္ထိကထာ။ ၁၉၇၂–ခုနှစ်။ (စာမျက်နှာ–၁၄)နှင့် ဦးမာနိတသိရီ၏ ပထမရွှေကျင်ဆရာတော်။ (စာမျက်နှာ–၁၇၉)တို့တွင် အကျယ်ရှုပါ။

[*၂] မဟာဒါန်ဝန်ဆိုသည်မှာ မင်းနေပြည်တော်နှင့်တကွ အနီးအစပ် မြို့ရွာတိုက်တာကျောင်းကန်ရှိ ရဟန်းသံဃာတို့ ဝိနည်းသိက္ခာပုဒ်တော်နှင့်မညီ ပြုလုပ်ကျင့်ကြံသည်ကိုစိစစ်ရန်၊ ကျောင်းမြေစသော သာသနာ့မြေကို ထိန်းသိမ်းစောင့်ရှောက်ရန်–စသည့်တာဝန်ရှိသူဖြစ်သည်။ ဦးမောင်မောင်တင်၏ ရွှေနန်းသုံးဝေါဟာရအဘိဓာန်။ ဗုဒ္ဓသာသနာအဖွဲ့၊ ရန်ကုန်မြို့။ ၁၉၇၅–ခုနှစ်။ (စာမျက်နှာ–၁၁၄)။

စာချပုံစာချနည်းနှင့် စာသင်သားအရေအတွက်တို့ကို လိုက်လံကြည့်ရှုရေတွက်စနည်းနာရ၏။ စာချကောင်းသည်ဟုသတင်းကျော်ကြားပြီး စာလိုက်သံဃာများသော စာချဘုန်းကြီး၏သတင်းကိုရလျှင် ပိဋကတ်တော်အုပ်မင်းထံအကြောင်းကြားရသည်။

ပိဋကတ်တော်အုပ်မင်းကလည်း လိုအခါမှ စာချပုဂ္ဂိုလ်ထံသို့သွားရောက်၍ မေးလျှောက်သင့်သည်တို့ကို မေးမြန်းစုံစမ်းရပါသည်။ စာမေးရာ၌ ပိဋကတ်တော်အုပ်မင်းက မိမိကြိုက်နှစ်သက်သောစာကို မေးရသည်မဟုတ်။ အမေးခံမည့်ပုဂ္ဂိုလ်ထံမှ မေးစေလိုသောစာကို စာသုံးကြောင်း, ငါးကြောင်းစသည် ပေပေါ်တွင် ဖယောင်းဖြင့်မှတ်ပေးစေရသည်။ ဤသို့ စာချပုဂ္ဂိုလ်က မှတ်သားပေးသော အမှတ်အတွင်းရှိစာတို့ကိုသာ ပိဋကတ်တော်အုပ်မင်းကမေးရခြင်းဖြစ်သည်။ ပိဋကတ်တော်အုပ်မင်းစစ်မေး၍ ကျေနပ်မှုရှိလျှင် စာချစစ်တမ်းအဖွဲ့သို့ စာလွှာတော်သွင်းရသည်။ စာချစစ်တမ်းအဖွဲ့က စာလွှာစာရင်း၌ပါသောစာချပုဂ္ဂိုလ်ကို တဖန် မိမိတို့အဖွဲ့ရှိရာသို့ပင့်ဆောင်ပြီး စာချအဆင့်သုံးဆင့်ခွဲ၍စာမေးလျှောက်ရပြန်ပါသည်။

စာချအဆင့်သုံးဆင့်တို့မှာ–

(က) ပထမစာတော်ချအဆင့်ဖြစ်လျှင်– (၁) ဝါကျသွားဝါကျလာနှင့်တကွ ဓာတ်,ပစ္စည်း, ပုဒ်ပါဌ်တို့ကိုခွဲဝေ၍ ဝိဂ္ဂြိုဟ်ဝစနတ်ကိုပြုနိုင်ခြင်း၊ (၂) ဂါထာဖွဲ့တတ်ခြင်းနှင့်တကွ ပဒဒေါသ စသော စာအလင်္ကာနည်းကိုသိခြင်း၊ (၃) နေတ္တိနည်းကိုသိခြင်း၊ (၄) ပဋိစ္စသမုပ္ပါဒ်နည်းကို သိခြင်း၊ (၅) ပဋ္ဌာန်းနည်းကိုသိခြင်း–စသည့် စာချအင်္ဂါငါးပါးနှင့်ပြည့်စုံမှုရှိ,မရှိ စစ်မေးရသည်။

(ခ) ဒုတိယစာတော်ချအဆင့်ဖြစ်လျှင်– (၁) ကျမ်းရိုးငါးချက် နှုတ်တက်ပိုင်နိုင်ခြင်း၊ (၂) ဗျဂ္ဂျနယကိုးပါး၊ ဒဗ္ဗစသော သဒ္ဒါငါးပါး၊ ဗျဥ္စနဗုဒ္ဓိဆယ်ပါးတို့၌နားလည်သိမြင်ခြင်း၊ (၃) ဓာတ် ပစ္စည်းကို အရကောက်နှင့်တကွမြိုင်မြိုင်မြင်ခြင်း၊ (၄) ဂါထာမဖွဲ့နိုင်၊ ဆန်းလက္ခဏာတို့ကိုသာ သိခြင်း–စသည့် စ. ၂အင်္ဂါလေးပါးနှင့်ပြည့်စုံမှုရှိ,မရှိ စစ်မေးရသည်။

(ဂ) တတိယစာတော်ချအဆင့်ဖြစ်လျှင်– (၁) အထွက်အတက် မြိုင်မြိုင်ပြောနိုင်ခြင်း၊ (၂) စာစပ်မြင်ခြင်း၊ (၃) သံဝဏ္ဏနာလှည့်နိုင်ခြင်း–စသော စာချအင်္ဂါသုံးပါးနှင့် ပြည့်စုံမှုရှိ,မရှိ စစ်မေးရလေသည်။

ဤသို့ စာချအဆင့်သုံးဆင့်၌ စာချစစ်တမ်းအဖွဲ့ကစစ်ဆေးပြီးပါက ရှင်ဘုရင်ထံသို့ ဤမည်သောရှင်ရဟန်းပုဂ္ဂိုလ်အား ဤမည်သောစာချအင်္ဂါတို့နှင့်ညီညွတ်ပါသဖြင့် ပထမ,ဒုတိယ, တတိယစသည် မည်သည့်စာချအဆင့်နှင့်ကိုက်ညီသင့်မြတ်ကြောင်းကို စာလွှာသွင်းရ၏။ ရှင်ဘုရင်က သဘောတူညီလျှင် စာချဆရာတော်အဖြစ်အသိအမှတ်ပြုပြီး စာလွှာဆက်ကပ်ကာ ပထမတန်းစာချဖြစ်က တစ်လလျှင် ဆွမ်းဆန်တော်ငါးတင်းအလှူခံရရှိ၏။ ဒုတိယတန်းစာချဖြစ်က တစ်လလျှင် ဆွမ်းဆန်တော်လေးတင်းအလှူခံရရှိ၏။ တတိယတန်းစာချဖြစ်က ဆွမ်းဆန်တော်သုံးတင်းအလှူခံရရှိလေသည်။ *၁

---

*၁ စာချဆရာတော်၏ အင်္ဂါနှင့် ဆွမ်းဆန်အလှူတော်များအကြောင်းကို ကျိုက်လတ်ဆရာတော်ဦးသောမာဘိဓဇ၏ မဇ္ဈိမဒေသစာတမ်း။ ပြည်ကြီးမဏ္ဍိုင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၁–ခုနှစ်။ (စာမျက်နှာ–၆၁)၌ ကြည့်ရှုပါ။

**ပထမစာတော်ချဖြစ်တော်မူခြင်း**

အရှင်ဉာဏသည် သက္ကရာဇ်–၁၂၃၅(အေဒီ–၁၈၇၃)ခုနှစ်၊ သိက္ခာရှစ်ဝါရအခါကပင် စံကျောင်းတိုက်အတွင်း၌ ဂဏဝါစကတိုက်စာချဖြစ်တော်မူခဲ့ပြီး၊ စာအပို့အချကောင်းမှုကြောင့် တစ်နေ့တခြား စာလိုက်သံဃာများလာသည်။ စာချကောင်းကြောင်းသတင်းလည်း ကြီးမား လာသည်။ ထို့ပြင် တပည့်ဖြစ်သူ ခင်မွန်ရှင်ကေတု ပဌမပြန်အောင်မြင်သည့်သတင်းကြောင့် လည်း 'ပဌမပြန်၏ဆရာ'ဟူသောဂုဏ်ပုဒ်က အရှင်ဉာဏ၏စာချဂုဏ်ကို ပို၍ကြီးမားလာစေ သည်။ သို့ဖြင့် မဟာဒါဝန်တို့ လာရောက်ကြည့်ရှုစနည်းနာကြပြီး ပိဋကတ်တော်အုပ်မင်းထံသို့ စာလွှာတင်သတင်းပို့ကြသည်။ သို့စာလွှာတင်ခြင်းကြောင့် ပိဋကတ်တော်အုပ်မင်းဦးယမ်ကပင် အရှင်ဉာဏအား ပင့်ခေါ်စစ်မေးရတော့သည်။

ပိဋကတ်တော်အုပ်မင်းသည် အရှင်ဉာဏ၏ထူးချွန်ထက်မြက်ပုံကိုသိပြီးဖြစ်လေရာ စာချ စစ်တမ်းအဖွဲ့သို့ ပထမစာတော်ချအဖြစ်ကိုးကွယ်သင့်ကြောင်း ထောက်ခံခဲ့သည်။ ထိုစဉ်က စာချစစ်တမ်းအဖွဲ့၌ ပိဋကတ်တော်အုပ်မင်းဦးယမ်နှင့်အတူ နိုင်ငံခြားဝန်ထောက်မင်းသံတော်ကြီး မင်းကြီးသီရိမဟာဇေယျသူဦးချိမ့်*[၁]လည်းပါရှိသည်။ ထိုနိုင်ငံခြားဝန်ထောက်မင်းဦးချိမ့်ကား မင်းကြီးဦးယမ်ကဲ့သို့ စာပေဗဟုသုတလွန်စွာကြွယ်ဝသူဖြစ်ပြီး ကဝိလက္ခဏာဒီပနီကျမ်းပြုလည်း ဖြစ်သည်။ စာဖတ်အလွန်ဝါသနာပါသည်။ နန်းတော်သို့ဝင်ချိန်နှင့် အိပ်ချိန်မှသာ စာနှင့်မျက်နှာ ခွာသူဖြစ်ကြောင်း ထင်ရှားသည်။*[၂]

မင်းကြီးဦးယမ်နှင့် ဦးချိမ့်တို့အဖွဲ့က အရှင်ဉာဏကို သဒ္ဒါနည်း၊ အလင်္ကာနည်း၊ နေတ္တိ နည်း၊ ပဋ္ဌာန်းနည်း စသည်မေးမြန်းလျှောက်ထားကြရာ မေးလျှောက်သမျှကို ချောမောစွာဖြေဆိုနိုင်သည့်အတွက် ပထမစာတော်ချအဖြစ်အသိအမှတ်ပြုခြင်း ခံယူတော်မူခဲ့ ရသည်။

မင်းကြီးဦးချိမ့်တို့အဖွဲ့က စစ်ဆေးမေးလျှောက်ပြီးသည့်နောက် 'ပထမစာချတန်း အောင် လောက်ပါပြီဘုရား၊ အရှင်ဘုရား စာသွားကဗျာသွားအလွန်ကောင်းမွန်လှပါသည်'ဟု တင်လျှောက် သောအခါ အရှင်ဉာဏက 'ဘုန်းကြီးတို့စာတတ်လာတာ ယောကြောင့်ပေါ့၊ ကဗျာတတ်လာ တာလဲ ယောကျေးဖူးပဲ'ဟူ၍ ဆရာသမားဖြစ်သူ ယောမင်းကြီးကို ထုတ်ဖော်ကာမိန့်ဆိုတော် မူခဲ့သည်။*[၃]

---

*[၁] မောင်သုတ၏စာဆိုတော်များအတ္ထုပ္ပတ္တိ။ ၂၀၀၂–ခုနှစ်။ (စာမျက်နှာ ၂၅၀–၂၅၂)။

*[၂] မော်ပီဆရာသိန်းကြီး၏ ပညာယိုကြီးများ။ ပညာ့အလင်းပြစာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၆–ခုနှစ်။ (စာမျက်နှာ–၉၄)။

*[၃] ဦးတင်အုန်း(ရွှေသွေး)က ဤအချက်ကို လယ်တီဆရာတော်ကြီးနှင့်အတူ ရဟန်း ၉–ဝါရသည့်တိုင်နေထိုင်ခဲ့ဖူးသူ မြေတိုင်း စာရေးကြီးဦးကျော်စူး ပြောပြ၍သိရကြောင်း ဖော်ပြထား၏။ ဦးတင်အုန်း(ရွှေသွေး)၏ ယောအတွင်းဝန်အတ္ထုပ္ပတ္တိ။ ၁၉၆၀–ပြည့်နှစ်။ (စာမျက်နှာ–၉၃)။ လယ်တီဦးလှပိုင်၏လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၆၅)။

## သစ်ဆိမ့်တိုက်ဆရာတော်ဦးပညာသီဟထံချဉ်းကပ်ခြင်း

အရှင်ဉာဏသည် စံကျောင်းတိုက်ကြီး၏ဂဏဝါစကစာချဘုန်းကြီးအဖြစ်မှသည် ဘုရင့်ဆွမ်းဆန်တော်အထောက်အပံ့ရ ပထမစာတော်ချအဖြစ်သို့ရောက်ရှိခဲ့သော်လည်း မိမိ၏စာပေစုဆောင်းမှုလုပ်ငန်းကိုကား အပျက်မခံခဲ့ပေ။

သို့ဖြစ်၍ ဥပုသ်နေ့တစ်နေ့ စာဝါနားခိုက် စံကျောင်းတိုက်နှင့်မနီးမဝေးတွင်တည်လျက်ရှိသော မဟာခေမိကာရာမ သစ်ဆိမ့်တိုက်သို့ကြွသွားတော်မူပါသည်။ ထိုအချိန်က သစ်ဆိမ့်တိုက်တွင် ပညာသီဟသာသနာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ရ ဒုတိယသစ်ဆိမ့်ဆရာတော်ဦးပညာသီဟ သီတင်းသုံးတော်မူလျက်ရှိပါသည်။ အရှင်ဉာဏသည် ဆရာတော်ဦးပညာသီဟထံတော်တွင် စာပေနည်းခံဆည်းကပ်ရန်အလို့ငှာ သစ်ဆိမ့်တိုက်သို့ မကြာမကြာကြွရောက်တော်မူခြင်းဖြစ်သည်။

ဆရာတော်ဦးပညာသီဟသည် မြောက်ပြင်ခြသေ့်ကြီး*၁–ဟူ၍ ပိဋကတ်စာပေအရာ၌ ကျော်ကြားသောပုဂ္ဂိုလ်ဖြစ်ပြီး မင်းတုန်းမင်းကြီး၏ကုသိုလ်တော် ပိဋကတ်သုံးပုံပါဠိတော်တို့ကို ကျောက်ထက်အက္ခရာတင်ရာ၌ အဆုံးကာလတိုင် တာဝန်ခံကြီးကြပ်ခဲ့ရသော ကျောက်စာတော်ပြင်မထေရ်ကြီးဖြစ်သည်။*၂ သက္ကရာဇ် ၁၂၃၅ (အေဒီ–၁၈၇၃) ခုနှစ်မတိုင်မီကဆိုလျှင် သစ်ဆိမ့်ဆရာတော်ကြီးသည် နန်းတွင်းဥယျာဉ်တော်ကျောင်း၌သီတင်းသုံးလျက် ကျောက်စာတော်တို့ကိုပြင်ဆင်နေခဲ့ရပြီး ယခုကျောက်ထက်အက္ခရာတင်ပွဲလုံးဝပြီးဆုံးသောအခါမှသာ မြောက်ပြင်ရှိ မိမိ၏သစ်ဆိမ့်တိုက်၌ ပြန်၍သီတင်းသုံးနေတော်မူရသည်။

ဆရာတော်ဦးပညာသီဟသည် ဗဟုသုတအလွန်များပြား၍ စာပေအလေ့အလာဝါသနာကြီးမားတော်မူသောဆရာတော်ဖြစ်သည်။ သို့ဖြစ်၍ အရှင်ဉာဏသည် ထိုဆရာတော်ကြီးထံဆည်းကပ်ကာ မေးမြန်းစုံစမ်းခြင်းဖြင့် မိမိ၏စာပေဗဟုသုတတိုးတက်ပွားများမှုဖြစ်စေခဲ့ပါသည်။

ဤတစ်ကြိမ်တွင် ပါဠိသဒ္ဒါအကြောင်းဆွေးနွေးလျှောက်ထားရင်း ဆရာတော်ဦးပညာသီဟ၏စာတိုက်သေတ္တာအတွင်းမှ အချအပို့ပြုမည့်ပုဂ္ဂိုလ်မရှိသဖြင့် ငြိုးငယ်တိမ်မြုပ်နေရသော ရူပသိဒ္ဓိအမည်ရှိ ပါဠိသဒ္ဒါကျမ်းပေမူတစ်စောင်ကို အရှင်ဉာဏရရှိတော်မူခဲ့ပါသည်။*၃

---

*၁ တောင်ပြင်ခြသေ့်ကြီးမှာ မန္တလေးမြို့တောင်ပြင် ဘုရားကြီးတိုက်ဆရာတော်အရှင်ဇာဂရကို ဆိုလိုပါသည်။

*၂ ဗန်းမော်သိမ်တော်ကျောင်းဆရာတော်အရှင်အာစာရ၏ ဂန္ဓာလင်္ကာရဇောတိဌဒီပနီကျမ်း။ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၈၁–ခုနှစ်။ (စာမျက်နှာ ၁၆၆–၁၇၄)။

*၃ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)က 'သစ်ဆိမ့်တိုက်ဘုန်းကြီးဦးရွှေဝထံမှ ထိုရူပသိဒ္ဓိပေမူကိုရသည်' ဟုရေးထား၏။ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၂၃)။ လယ်တီဦးလှပိုင်ကလည်း 'မြင်းခြံဘုန်းကြီးဦးရွှေဝ၏ သစ်ဆိမ့်တိုက်မှရသည်' ဟုရေး၏။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၅၇)။ လယ်တီဦးကောဝိဒက 'စံကျောင်းပိဋကတ်တိုက်အတွင်းမှ မဟာရူပသိဒ္ဓိစာမူဟောင်းတစ်ခုကိုတွေ့ရှိတော်မူသောဟူ၏' ဟု ရေးထား၏။ လယ်တီဦးကောဝိဒ၏ လယ်တီပဒမာလာကျမ်း၊ပထမတွဲ။ ပိဋကတ်တော်ပြန့်ပွားရေးစာပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၆၃–ခုနှစ်။ ချောက်မြို့ အရှင်ဣန္ဒာစာရ၏ ပဒဗျူဠနနိရုတ္တိနီတိ၊ ပထမတွဲလာ ဒဂုန်ဦးစန်းငွေ၏ နိဒါန်း၌မူ ဆရာကြီးဒဂုန်ဦးစန်းငွေက 'တစ်နေ့သောအခါတွင် ကံအားလျော်စွာ အဆိုပါရူပသိဒ္ဓိကျမ်းကိုတွေ့ရှိတော်မူသည်' ဟု သာမညရေးထား၏။ အရှင်ဣန္ဒာစာရ၏ ပဒဗျူဠနနိရုတ္တိနီတိ၊ ပထမတွဲ။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၈၁–ခုနှစ်။ (စာမျက်နှာ–ကော့)။

ရူပသိဒ္ဓိကျမ်းကိုလေ့လာတော်မူခြင်း

အိန္ဒိယနိုင်ငံတောင်ပိုင်း စောဠ (ခေါ်) ဒမိလတိုင်းသား (ယခု–မဒရပ်နယ်) အရှင်ဗုဒ္ဓပိယမထေရ်သည် သီဟိုဠ်ကျွန်း ဗာလာဒိစ္စနှင့် စူဠာမဏိကမ္ဘကျောင်းတိုက်တို့၌ နေထိုင်သီတင်းသုံးစဉ်အခါပြုစုအပ်သော ရူပသိဒ္ဓိကျမ်းသည် ပါဠိစာပေလောက၌ အလွန်ထင်ရှားသောသဒ္ဒါကျမ်းတစ်စောင်ဖြစ်၏။ ထိုအရှင်သည် ရူပသိဒ္ဓိကျမ်းကိုသာမက ရူပသိဒ္ဓိဋီကာကျမ်းနှင့် ပဇ္ဇမဓုကျမ်းတို့ကိုလည်း ပြုစုစီရင်ခဲ့လေသည်။ အရှင်ဗုဒ္ဓပိယသည် ရူပသိဒ္ဓိကျမ်းကို ကစ္စည်း၊ န្យាသနှင့် သန္ဓိနိရုတ္တိစသော ရှေးသဒ္ဒါကျမ်းတို့ကိုမှီ၍ ရေးသားခဲ့ခြင်းဖြစ်ပါသည်။

ရူပသိဒ္ဓိကျမ်းတွင် ရုပ်များကိုမြင်လွယ်အောင် ရုပ်ပြီးလွယ်အောင် သုတ်တို့ကိုတစ်မျိုးတစ်ဖုံစီစဉ်ထား၏။ ရုပ်များကိုတည်ပြီး ဆိုင်ရာသုတ်တို့ကိုစီစဉ်လျက် ရုပ်ပြီးပုံကိုပြထားခြင်းဖြစ်ပါသည်။ ထို့ပြင် သန္ဓိ, လိင်(နာမ်), ကာရက, သမာသ, တဒ္ဓိတ, အာချာတ, ကိဗ္ဗိဓာန–စသည်ဖြင့် အခန်းခုနစ်ခန်း ခွဲဝေကာပြထားသည်။

အရှင်ဉာဏသည် ထိုရူပသိဒ္ဓိပါဠ်ကို ရင်းတုံ့ဖျားလှည့် အထပ်ထပ်လေ့လာသုံးသပ်တော်မူပါသည်။ ရူပသိဒ္ဓိကျမ်းကိုကြည့်ရှုရင်း သည်ကျမ်းကြီးကို ကျကျနနပြင်ဆင်ပြီးပို့ချလိုက်ရလျှင် ယခုအခါ ရုပ်ပြီးမလွယ်၍ သဒ္ဒါတတ်မှု,စာတတ်မှုအတွက် အခက်အခဲဖြစ်နေရခြင်းမှ လွတ်မြောက်ပြီး စာတတ်,သဒ္ဒါတတ်ဖြစ်ကြပေလိမ့်မည်ဟု အတွေးဝင်မိတော်မူခဲ့သည်။ မိမိ၏အတွေးကို မျိုသိပ်ထားခြင်းမစွမ်းနိုင်သည့်အတွက် ဆိုးတိုင်ပင်ကောင်းတိုင်ပင်ဖြစ်သော ဆရာရင်းစလင်းဆရာတော်ဦးပဏ္ဍိစ္စ၏ခြေတော်ရင်း၌ဝပ်စင်းကာ ပဒရူပသိဒ္ဓိကျမ်းအကြောင်းကို ထုတ်ဖော်လျှောက်ထားခဲ့လေသည်။

စလင်းဆရာတော်က မိမိတပည့်ရှင်ဉာဏ၏စာပေလိုက်စာမှုအားကြီးပုံကို ဝမ်းမြောက်ဝမ်းသာဖြစ်ရပြီး၊ ထိုခေတ်ထိုအခါက အကျယ်ကြိုက်သမားတို့ခေတ်ထနေ၍ အကျဉ်းနှင့်ရှင်းရှင်းစာတတ်အောင်ပြုပေးနိုင်သော ရူပသိဒ္ဓိကျမ်းသည် နည်းမည်မျှပင်ကောင်းစေကာမူ အသုံးပြုမည့်သူမရှိ၍ နောက်တန်းရောက်နေရသည်ကိုသိမြင်တော်မူရကား တပည့်ဖြစ်သူကို အောက်ပါနှစ်သိမ့်စကား မိန့်ကြားတော်မူပါသည်။

'မောင်ဉာဏ၊ ယခုအခါမှာ န្យាသတို့ ဗာလာဝတာရတို့ မိုးကောင်းနေချိန်ဖြစ်၍ ပဒရူပသိဒ္ဓိဟာ မတိုးနိုင်သေးဘူးပ။ သို့ပေမင့် သည်ကျမ်းရဲ့အရည်အသွေးကို ရိပ်စားမိတော်မူမိတဲ့အတွက် ဆရာတော်ဦးဗုဓ်ကတော့ နိဿယတစ်စောင်ရေးသားတော်မူသွားတယ်။ အဲဒါလဲ ခုအချိန်မှာတော့ ခေါင်းမပြူနိုင်ရှာဘူးပေါ့'[*၁] ဟူ၍ ဖြစ်ပါသည်။

---

[*၁] အရှင်ဣန္ဒာစာရ၏ ပဒရူပသိဒ္ဓိနိရုတ္တိဒီပနီကျမ်း၊ ပထမတွဲ။ ၁၉၈၁–ခုနှစ်။ (စာမျက်နှာ–ကော)။



လယ်တီဆရာတော်လောင်းလျာအရှင်ဉာဏ စာကြည့်,စာရရာ မြောက်ပြင်ပိဋကတ်တိုက်ကြီး



လယ်တီဆရာတော်ကြီး၏တပည့်ရင်း
အရှင်ဣန္ဒက(ကြောင်ပန်း)



လယ်တီဆရာတော်ကြီး၏တပည့်ရင်း
ပဌမကျော်ဦးကေတု(ခင်မွန်)

စလင်းဆရာတော်ကြီး၏မိန့်ခွန်းစကားကို အရှင်ဉာဏကြားရလျှင် သာသနာတော်၌နေလ သဖွယ်ထင်ရှားပြီး မျက်မှောက်ခေတ်သာသနာကို ဦးဗုဓ်သာသနာဟုပင် ဆိုစမှတ်ပြုလောက် အောင်ကျော်ကြားလှသော ဆရာတော်ဦးဗုဓ်၏ရူပသိဒ္ဓိနိဿယမူကို ကြည့်ရှုတော်မူလိုသော ကြောင့် ရူပသိဒ္ဓိနိဿယမူကိုရှာပုံတော်ဖွင့်ခဲ့ရပြန်သည်။

ဆရာတော်ဦးဗုဓ်သည် ပဒရူပသိဒ္ဓိပါဠ်၏မှီရာဖြစ်သော နိဿယကျမ်းကို အဓိပ္ပာယ်အဆုံး အဖြတ်, နိယံ, အနုသန္ဓေ, ကျမ်းတက်စသည်ဖြင့် တန်ဆာဆင်၍ ကျမ်းဂန်အရပ်ရပ်မွှေနှောက်ပြီး သက္ကရာဇ် ၁၁၉၀–ပြည့်နှစ်၊ ဝါခေါင်လဆန်း ၆–ရက် (အေဒီ–၁၇၊ ဇူလိုင်လ၊ ၁၈၂၈–ခုနှစ်)တွင် ပြုစီရင်တော်မူခဲ့ခြင်းဖြစ်သည်။ ဆရာတော်ကြီးသည် ပဒရူပသိဒ္ဓိကျမ်းကြီးကို ဆန်းနည်း,အလင်္ကာ နည်း, အဘိဓာန်နည်းစသည်ဖြင့် စုံလင်စွာဖော်ပြစီရင်တော်မူခဲ့ရာ ရူပသိဒ္ဓိတစ်ကျမ်းတည်း လေ့လာခြင်းဖြင့်ပင် အထက်ပါနည်းတို့ကိုပါ နိုင်နိုင်နင်းနင်းတတ်မြောက်နိုင်လေသည်။

အရှင်ဉာဏသည် မရမနေဖွဲ့လုံ့လကြီးမားစွာရှာဖွေသည့်အတွက် ဆရာတော်ဦးဗုဓ်၏ ပဒရူပသိဒ္ဓိပါဠ်နိဿယကျမ်းကို ရှာဖွေရရှိတော်မူခဲ့လေသည်။ ထို့ပြင် ရူပသိဒ္ဓိကျမ်း၏အဖွင့် ရူပသိဒ္ဓိဋီကာကိုလည်း အရှင်ဗုဒ္ဓပိယသည်ပင်လျှင်စီရင်တော်မူခဲ့ပြီးလျှင် ထိုဋီကာကျမ်း၏ နိဿယ ကိုလည်း နိကာယဝဏ္ဏာဝပါရဂူလင်းယဉ်ထူတော်မူသော ဆရာတော်ဦးဗုဓ်သည် သက္ကရာဇ်၁၁၉၁– ခုနှစ်၊ သီတင်းကျွတ်လ (အေဒီ ၁၈၂၉–ခုနှစ်၊ အောက်တိုဘာလ)၌အပြီးသတ်ရေးစီရင်တော်မူရာ ထိုပဒရူပသိဒ္ဓိဋီကာနိဿယကျမ်းကိုလည်း ရှာဖွေရရှိပြီးလျှင် ရူပသိဒ္ဓိကျမ်းရင်းနှင့် တွဲဖက်လေ့လာ တော်မူခဲ့သည်။

အဆိုပါ ရူပသိဒ္ဓိပါဠ်နှင့်ဋီကာတို့ကို နိဿယ စသည်တို့နှင့်တွဲဖက်ပြီးလေ့လာပြီးသောအခါ အရှင်ဉာဏသည် ‘ဤမဟာရူပသိဒ္ဓိအမည်ရှိသော သဒ္ဒါကျမ်းကို စာသင်လောက၌တွင်ကျယ်လာ အောင် ငါရေးရှုအံ့, ဆောင်ရွက်အံ့၊ ကစ္စည်းကျမ်း, ဉာသကျမ်းတို့၏လောင်းရိပ်အောက်တွင် သဒ္ဒါဉာဏ်ဖင့်နေးဆိုင်းတွနေကြသော စာသင်သားတို့အား ဤမဟာရူပသိဒ္ဓိကျမ်းဖြင့် အလျင်အမြန် သဒ္ဒါမျက်စိပွင့်အောင် ငါဖွင့်ပေးအံ့’ဟူသော သန္နိဋ္ဌာန်များပင်ချတော်မူခဲ့သည်။*၁

## ရူပသိဒ္ဓိကျမ်းကိုစမ်းသပ်ပို့ချတော်မူခြင်း

ပထမစာတော်ချဘုန်းတော်ကြီးအရှင်ဉာဏသည် ပဒရူပသိဒ္ဓိကျမ်းကို စာဝါလုပ်၍ပို့ချအံ့ဟု ဖိတ်ခေါ်သောအခါ စာဝါလိုက်မည့်စာသင်ပုဂ္ဂိုလ်တစ်ပါးမှမရှိဘဲဖြစ်နေသည်။ ရူပသိဒ္ဓိကျမ်းသည် စာချဘုန်းကြီးလက်စွဲပြု၍ ချပို့ရိုးစာမဟုတ်၍ မလိုက်ကြခြင်းဖြစ်သည်။

ထိုအခါ အရှင်ဉာဏသည် အနီးနေစာသင်သားတို့အား ချော့တစ်လှည့်ချောက်တစ်လီ ရူပသိဒ္ဓိစာဝါတက်ရန် တိုက်တွန်းတော်မူခဲ့၏။ အချိန်ကာလအတော်ကုန်သွားသော်လည်း စာဝါ လိုက်မည့်ပုဂ္ဂိုလ်မပေါ်ပေါက်ခဲ့သော်လည်း အရှင်ဉာဏ လက်မလျှော့ခဲ့ပေ။ ကာလအတော်

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၂၄)။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင် ကျော်များ။ (စာမျက်နှာ–၅၈)။

ကြာသောအခါ စာဝါတက်မည့်စာသင်သားတစ်ဦးပေါ်လာ၏။ ထိုပုဂ္ဂိုလ်ကား ကျောက်ပန်းတောင်းနယ် ငွေးချိုရွာဇာတိ အသက် ၁၈-နှစ်အရွယ်သာမဏေ ရှင်ဉာဏသာဂရဆိုသူပုဂ္ဂိုလ်ဖြစ်၏။*၁

ရှင်ဉာဏသာဂရသည် ခွန်အားဗလပြည့်စုံပြီး ပညာဉာဏ်လည်းထက်မြက်သူဖြစ်သည်။ သို့သော် လာဘ်လာဘကား ရှားပါးနေရှာသည်။ သို့ဖြစ်၍ စာချဘုန်းကြီးအရှင်ဉာဏသည် ထိုရှင်ဉာဏသာဂရအား သင်္ကန်း,ထီး,ဖိနပ်ပေးပြီးချောမော့ကာ ရူပသိဒ္ဓိသုတ်စဉ်ကို ရှေးဦးကျက်ခိုင်းရ၏။ ရှင်ဉာဏသာဂရ ရူပသိဒ္ဓိသုတ်စဉ်ကိုကျေပွန်စွာရပြီး ရူပသိဒ္ဓိစာဝါပို့ချတော်မူသောအခါ ဆရာသမားကိုကြောက်၍တစ်ကြောင်း၊ အားမိသထောက်ပံ့ထား၍တစ်ကြောင်း တို့ကြောင့် စိတ်ထဲကပါပုံမရသော်လည်း ရှင်ဉာဏသာဂရသည် သင်ရင်းသင်ရင်းနှင့် ရူပသိဒ္ဓိ၏ ကောင်းမြတ်ပုံ၊ စာတတ်လွယ်ပုံစသည့်အကျိုးကျေးဇူးကိုသိမြင်လာပြီး မကြာမီကာလအတွင်း လိုလိုလားလား ဖွဲ့နဘဲဖြင့်သင်ယူလေရာ ရူပသိဒ္ဓိကျမ်း ဆုံးခန်းတိုင်မြောက် အပြီးသို့ရောက်ခဲ့လေသည်။ ထိုအခါ အရှင်ဉာဏသာဂရသည် သဒ္ဒါပါမောက်ဆိုရလောက်အောင် သဒ္ဒါအရာ၌လိမ္မာရေးခြားရှိခဲ့ပြီး အသိဉာဏ်ထွားကျိုင်းလာသည်ကို မျက်မြင်ဒိဋ္ဌတွေ့မြင်ကြရလေတော့သည်။

ကိုရင်ဉာဏသာဂရ သဒ္ဒါအရာ၌ပေါက်မြောက်သွားခဲ့ပုံကိုတွေ့မြင်ကြရသောအခါ အခြားပုဂ္ဂိုလ်တို့လည်း ရူပသိဒ္ဓိကိုသင်ကြားလိုကြသောကြောင့် အရှင်ဉာဏထံ ရူပသိဒ္ဓိစာဝါကို တက်ခဲ့ကြသည်။ ကာလကြာသော် ရူပသိဒ္ဓိကျမ်းချုံ့ချနည်းကို တိုးတက်တီထွင်သောအားဖြင့် နေ့ဝါအဖြစ် ရူပသိဒ္ဓိကျမ်းကိုပို့ချ၏။ ညဝါအဖြစ် ရူပသိဒ္ဓိကျမ်း၌လာရှိသော ပဒမာလာများကို ဆိုရိုးပြု၍ပို့ချတော်မူပြန်ရာ စာသင်သားတို့ ပိုမို၍ဉာဏ်အမြင်သန်ခဲ့ကြလေသည်။*၂

## ရပ်ပြီးလိမ္မာရန်အတွက်ဆွေးနွေးခြင်း

အရှင်ဉာဏသည် ရူပသိဒ္ဓိကျမ်းကိုစတင်တွေ့ရှိသည့်အခါမှစ၍ ရပ်ပြီးလိမ္မာရေးသည် သဒ္ဒါတတ်ရေး စာတတ်ရေးအတွက် အရေးပါလှပုံကို နှုတ်ကမချ မိန့်တော်မူလေ့ရှိသည်။ အခြားအရှင်များနှင့်ဆွေးနွေးရာ၌လည်း ထိုရပ်ပြီးလိမ္မာရေးကို အထူးအလေးထား၍ ပြောဆိုဆွေးနွေးတော်မူလေသည်။ အရှင်ဉာဏနည်းတူပင် မဟာဝိသုဒ္ဓါရာမဆရာတော်လောင်းလျာ အရှင်ဝိသုဒ္ဓါစာရသည်လည်း မိမိ၏တပည့်များအား သဒ္ဒါတတ်မြောက်ရေးအတွက် ဩဝါဒချီးမြှင့်ရာတွင် 'စာတတ်ကြောင်းကား တစ်ပါးသာတည်း၊ တစ်ပါးဟူသည် ရပ်ပြီးခြင်းတည်း၊ ရပ်များများပြီးလျှင် များများစာတတ်၏။ အလတ်စားပြီးလျှင် အလတ်စားစာတတ်၏။ အနည်းငယ်ပြီးလျှင်

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)က 'ကိုရင်ရှင်တေဇ' ဟုပြ၏။ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၂၄)။ ဒဂုန်ဦးစန်းငွေက 'ရှင်ဉာဏသာဂရ' ဟုပြ၏။ လယ်တီဦးကောဝိဒ၏ လယ်တီပဒမာလာကျမ်း၊ ပထမတွဲ။ ၁၉၆၃-ခုနှစ်။ (စာမျက်နှာ-ဏ)နှင့် အရှင်ဣန္ဒာစာရ၏ ပဒဗျူဟနိရုတ္တိနီတိကျမ်း၊ ပထမတွဲ။ ၁၉၈၁-ခုနှစ်။ (စာမျက်နှာ-ကော့)။

*၂ လယ်တီဦးကောဝိဒ၏ လယ်တီပဒမာလာကျမ်း၊ ပထမတွဲ။ ၁၉၆၃-ခုနှစ်။ (စာမျက်နှာ-တ)။

အနည်းငယ်တတ်၏'ဟု ရုပ်ပြီးလိမ္မာရေးကိုအလေးထားကြဖို့ ထည့်သွင်းမိန့်ကြားတော်မူလေ့ရှိသည်။*၁

ရုပ်ပြီးလိမ္မာရေးအတွက် အထူးကြိုးပမ်းနေသော အရှင်ဉာဏသည် မိမိ၏ရုပ်ပြီးလိမ္မာရေး အထူးအရေးကြီးပုံ သဘောထားတို့ကို မိမိနှင့်အယူအဆတူမျှသော အရှင်ဝိသုဒ္ဓါစာရ(မဟာဝိသုဒ္ဓါရုံဆရာတော်)ထံသို့ အောက်ပါအတိုင်းလျှောက်ထားဖူးလေသည်။

'ယခုလောကမှာ ရုပ်ပြီးပိုင်မှုသည်သာ သဒ္ဒါတတ်ကြောင်း, စာတတ်ကြောင်း, ကျမ်းတတ်ကြောင်းဟု မသိကြ။ ထိုထို သဒ္ဒဝိနိစ္ဆယ, အတ္ထဝိနိစ္ဆယတို့ကို များများ တတ်လျှင် သဒ္ဒါတတ်သည်, စာတတ်သည်ဟု မှတ်ထင်ကြ၍ သဒ္ဒါတတ်ရန်, စာတတ်ရန် သဒ္ဒါကြီးကို သံဝဏ္ဏနာလှည့်၍ချသူ ချ၊ ဉာသ်ကျမ်း, သံပျင်ကျမ်းများကို ချသူ ချ၊ သဒ္ဒါငယ်ကျမ်းတို့ကို ချသူ ချ၊ ဆောင်သူဆောင်၊ နိယံသံပေါက် အတို အနှောင်းစုကို ဆောင်သူ ဆောင်။ သဒ္ဒါရုပ်ပြီး ပိုင်နိုင်မရှိကြဘဲ ဋီကာကျော်,ကၡ်ါ စသောကျမ်းဂန်များကို ပုဒ်စေ့,ပါဌ်စေ့ စုဒ်စောဒနာတွေနှင့် နှစ်လရှည်ကြာ ဗလဖွာ တတ်တိုင်း အလိုင်းတကြီးပြောဆို၍ ချသူ ချ။ သို့ဖြစ်၍နေကြသော ဤလောက အလယ်မှာ ရုပ်ပြီးသဒ္ဒါကျမ်း*၂ ဘယ်လိုပင်ကောင်းသော်လည်း အသုံးတွင်ကျယ်ရန် အခွင့်ကိုမမြင်ပါသည်။*၃

'သဒ္ဒါတတ်မှု, စာတတ်မှုမှာ ရုပ်ပြီးလိမ္မာမှုသည်သာ မူလပဓာနဖြစ်၏။ အကြီး အကျယ်ဆုံးသောအလုပ်ဖြစ်၏။ ရုပ်ပြီးကောင်းကောင်းလိမ္မာခဲ့လျှင် ထိုထို သဒ္ဒဝိနိစ္ဆယ, သဒ္ဒတ္ထဝိနိစ္ဆယ ခက်ဆစ်ခက်ရပ်သည် ကြည့်ကာ,ရှုကာ,နာယူကာနှင့်ပြီး၏။ သဒ္ဒဝိနိစ္ဆယ, အတ္ထဝိနိစ္ဆယ, ခက်ဆစ်ခက်ရပ် ဘယ်လိုပင်တတ်သော်လည်း ရုပ်ပြီး မစေ့စပ်မူ သဒ္ဒါတတ်သည်, စာတတ်သည် မဆိုလောက်၊ ကျမ်းတတ်မှာဝေးစွ'ဟူ၍ လည်းကောင်း၊ 'ပဋိသန္ဓေဉာဏ်ပညာရှိ၍ မိမိပင် သုတ်ပြီးရုပ်ပြီး အကြမ်းအားဖြင့် မြင်ကြသော်လည်း စာသင်သားငယ်တို့ကို အလွယ်တကူနှင့် သုတ်ပြီးရုပ်ပြီး အနုစိတ် မြင်တဲ့အောင် ကြံဖန်၍မချတတ်သည်နှင့် မူလပဓာနဖြစ်သော သဒ္ဒါမှုကြီးကိုပင် အလေးမပြုလောက်လေယောင်ယောင် ချောင်ကြို့ချောင်ကြားမှာ ကုန်မှကုန်ပစေ နဝေနဝါနှင့်ပြီးစေကြ၏။

သဒ္ဒါကြီးအနေမှာ မသေမချာ နဝေနဝါ တွေဝေစရာ အလွန်များ၏။ ဂိုဏ်းဂဏဖွဲ့စည်းမှုနှင့်တကွ သဒ္ဒါရုပ်ပြီးဉာဏ်ဖြန့်ဖြူးမှု၌ ကျေးဇူးပြုခြင်းမရှိဘဲ သုတ်တွက်, သုတ်တက်၊ ဆက္ကသံဝဏ္ဏနာ, ထွေထွေလာလာစကားစုနှင့် အကျယ်

---

*၁ အရှင်ပဏ္ဍိတ၏ ရွှေကျင်နိကာယသာသနာဝင်။ ၁၉၆၃-ခုနှစ်။ (စာမျက်နှာ-၅၁၁)။

*၂ ပဒရူပသိဒ္ဓိကျမ်းကိုဆိုလိုသည်။

*၃ လယ်တီဆရာတော်၏ သာသနဝိသောဓနီ၊ တတိယတွဲ။ ၁၉၅၄-ခုနှစ်။ (စာမျက်နှာ-၂၁၅)။

တဝင့် ဖွင့်ဆိုသိုင်းဝိုင်းကြသော ဉာသ်ကျမ်း၊ သံပျင်ကျမ်း၊ နိရုတ္တိမဉ္ဇူကျမ်း၊ သုတ္တနိဒ္ဒေသကျမ်း၊ ကစ္စာယနဝဏ္ဏနာကျမ်းများသည်လည်း သာသနာတော်၌ ပပဉ္စမှုကြီး သက်သက်ဖြစ်၏။ မဏိမဉ္ဇူ,မဏိဒီပတို့ကဲ့သို့တည်း။

'ရုပ်ပြီးမှုမည်သည် သင်္ကေတမျှဖြစ်၍ အာကတိဂိုဏ်း၊ ပိသောဒရာဒိဂိုဏ်း အဆုံးအဖြတ်မှာပါရှိသော လောကီကျမ်းစကားများကဲ့သို့ တိုနိုင်လေ ကောင်းလေ၊ ကျဉ်းနိုင်လေ ကောင်းလေ၊ ပြီးလွယ်လေ ကောင်းလေသာဖြစ်၏။

ထိုသို့ဖြစ်၍ သဒ္ဒါကြီးမှာ သင်ကြားသူလူငယ်, ရှင်ငယ်, ရဟန်းငယ်ကလေးများနှင့် အင်အား မတန်လှသော ပါဠိသေသတွေနှင့်ကိန်းစွဲမှု၊ သုတ်လိုက်မှုတွေနှင့် ရုပ်တွက်မှု အရာမရောက်သေးဘဲ သောတိ-စသည်တို့၌ ဓာတ်, သမာသ်ရုပ်, တဒ္ဓိတ်ရုပ်များကို တွက်ဆိုမှု အထွေထွေအလာလာ လျဉ်းပါးမှုများသည်လည်း ဤသာသနာ၌ နိဿဆရာကြီးတို့၏ ပပဉ္စမှုကြီးစုသာတည်း။*[၁]

'ရှေးအခါက ရုပ်ပြီးမှုကိုပဓာနမပြုဘဲ ပါဠိရလျှင်တတ်သည်ထင်ကြ၍ သဒ္ဒါ, သင်္ဂြိုဟ် ပါဠိကုန်၊ ဆန်း, အလင်္ကာ, အဘိဓာန်ပါဠိကုန်သည်တွင်မက မာတိကာ, ဓာတုကထာ, ယမိုက်, ပဋ္ဌာန်းကုသလတိက်ကုန်စာစုကို အသက်အရွယ်နုလှသေးသော ကုလပုတ္တကလေးတွေကို သုဓမ္မာဇရပ် ပရိသတ်ကြီးအလယ်မှာ ပြန်ဆိုစေမှုများသည်ကား ဤသာသနာမှာ အဋ္ဌာနနိယောဇနမှုကြီးသက်သက်သာတည်း။*[၂]

'သဒ္ဒါကြီးပါဠိကိုရသော်လည်း ရုပ်ကောင်းကောင်းကြီးမပြီးလျှင် အပင်ပန်းကြီးပင်ပန်းရုံမျှသာရှိ၏။ ပါဠိကိုမရသော်လည်း သုတ်စဉ်ကိုရ၍ ပို့ချနည်းနေရာကျ၍ ဂိုဏ်းဂဏစဉ်မှုနှင့်တကွ ရုပ်လှလှပြီးစီးလျှင် သဒ္ဒါကိစ္စပြီး၏။

'သဒ္ဒါတတ်ခဲ့လျှင် ဆန်း,အလင်္ကာ,အဘိဓာန်များမှာ လက်ရှိထား၍ကြည့်ကာရှုကာနှင့် ပြီး၏။ သဒ္ဒါရှစ်စောင် သုတ်ပြီး, ရုပ်ပြီးနှင့်တကွ သဒ္ဒါအသိုက်အအုံနှင့် ကောင်းစွာလိမ်မာမှုသည်သာလျှင် သဒ္ဒါတတ်ဖို့, စာတတ်ဖို့, ကျမ်းတတ်ဖို့ မူလပဓာန အမှန်ဖြစ်၏။ ရုပ်ပြီးမှုမှာလည်း နာမ်,အာချာတ်,ကိတ် အနိုင်အနင်းလိုလှ၏။ ထိုကနိုင်နင်းခဲ့လျှင် အကြွင်းငါးစောင်မှာ ပြောဆိုကာမျှနှင့်ပြီး၏'*[၃]

ဟူ၍ ရုပ်ပြီးလိမ္မာစေရေးကိစ္စကို အလွန်အရေးထား၍ ကြိုးပမ်းတစားလျှောက်ထားတော်မူခဲ့ပါသည်။

---

*[၁] လယ်တီဆရာတော်၏ သာသနဝိသောဓနီ၊ တတိယတွဲ။ ၁၉၅၄-ခုနှစ်။ (စာမျက်နှာ-၂၁၆)။

*[၂] လယ်တီဆရာတော်၏ သာသနဝိသောဓနီ၊ တတိယတွဲ။ ၁၉၅၄-ခုနှစ်။ (စာမျက်နှာ-၂၁၇)။

*[၃] လယ်တီဆရာတော်၏ သာသနဝိသောဓနီ၊ တတိယတွဲ။ ၁၉၅၄-ခုနှစ်။ (စာမျက်နှာ-၂၁၉)။

ဤသို့လျှောက်ထားခဲ့သော စကားရပ်တို့သည်ကား 'ပါဠိဘာသာအမြန်တတ်မှသာလျှင် သဒ္ဒါတတ်, စာတတ်, ကျမ်းတတ်ပညာရှိများဖြစ်ကြလိမ့်မည်' ဟု မိမိ၏စိတ်နှလုံးအတွင်း၌ရှိသည့်အတိုင်း အရှင်ဉာဏ ထုတ်ဖော်လျှောက်ထားခဲ့ခြင်းပင်ဖြစ်ပါသည်။

**မြန်မာဘာသာပြန်ဆိုမှုလုပ်ငန်း**

လယ်တီဆရာတော်ကြီးလောင်းလျာ အရှင်ဉာဏသည် ပါဠိသဒ္ဒါသင်ယူနေကြသောစာသင်သားများအတွက် အချိန်မကုန်ဘဲ ပါဠိဘာသာလွယ်လင့်တကူ တတ်မြောက်ကြစေရန်အတွက် ပါဠိစာပေသင်ကြားရေးနည်းစနစ်သစ်များကို ကြိုးပမ်းရှာဖွေကာ နည်းသစ်ထွင်နေသကဲ့သို့ မြန်မာစာပေဘက်ကလည်း မြန်မာလူမျိုးတို့အတွက် လူတိုင်းဖတ်ရှုလွယ်မည့် စကားပြေသက်သက် မြန်မာစာပေရေးသားပြုစုရေးကို ကြိုးပမ်းအားထုတ်တော်မူခဲ့ပါသည်။

အရှင်ဉာဏသည် စာချချိန်, စာကြည့်ချိန်ပြီးလျှင် မြောက်ပြင်ပိဋကတ်တိုက်သို့လည်း ကြွသွားပြီး၊ ပိဋကတ်တော်အုပ်မင်းဦးယမ်နှင့် မြန်မာစကားပြေအရေးအသားတိုးတက်ရေးအတွက် နှီးနှောဆွေးနွေးမှုများပြုတော်မူခဲ့ပါသည်။

ပိဋကတ်တော်အုပ်မင်းဦးယမ်သည် မြန်မာစာပေတိုးတက်ရေးကို စိတ်အားထက်သန်စွာ ကြိုးပမ်းသောပုဂ္ဂိုလ်ကြီးဖြစ်သည်။ အထူးအားဖြင့် 'မောင်ယမ်မှာ သူ့ပိဋကတ်တိုက်၌သာ နေရှာ့သည်' ဟု မင်းတုန်းမင်းတရားကြီးကမိန့်တော်မူလောက်အောင် ပိဋကတ်တိုက်၌ အချိန်ကုန်နေသည်မှန်သော်လည်း ဦးယမ်သည် စာနစာယဉ်ဘုန်းတော်ဘွဲ့စာများနှင့် အချိန်ကုန်နေခြင်း မဟုတ်။ မြန်မာအမျိုးသားတို့ ဖတ်သင့်ဖတ်ထိုက်သောစာများကို ရှာဖွေတည်းဖြတ်ပြီး ဘာသာပြန်ဆိုနေခြင်းဖြင့် အချိန်ကုန်နေခြင်းသာဖြစ်သည်။

အခြားတစ်ပါးသောပညာရှင်တို့က ခက်ခဲလေးနက်သောပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာကျမ်းတို့၏နိသျတို့ကိုပြုစုနေချိန်တွင် ပိဋကတ်တော်အုပ်မင်းကမူ မဟာဝင်၊ ဒါဌာဓာတုဝင်၊ အနာဂတဝင်၊ မဓုရရသဝါဟိနီစသော ပြည်သူအများဖတ်ကောင်းမည့် ဗဟုသုတတိုးပွားစေမည့်စာပေကျမ်းဂန်တို့ကို မြန်မာဘာသာနိသျသို့ပြန်ဆိုခဲ့ပါသည်။ ပါဠိမြန်မာ ဂန္ထ န္တ ရစာပေတို့ကို လေ့လာလိုက်စားသူတို့အတွက် အားထားစရာဖြစ်သော ပိဋကတ်သမိုင်းစာတမ်းကိုလည်း အချိန်အကုန်ခံ၍ ရေးသားပြုစုခဲ့ပါသည်။

အရှင်ဉာဏသည် ပိဋကတ်တော်အုပ်မင်းနှင့်အစဉ်တွေ့ဆုံဆွေးနွေးခွင့်ရသည့်အတွက် မြန်မာအမျိုးသားတို့အတွက် အထူးလိုအပ်နေသော စကားပြေသက်သက်နှင့်ရေးထားသော စာပေမျိုး၊ စာဖတ်ဝါသနာနည်းသူများကို ဝါသနာထုံလာစေရန် လမ်းသွယ်ပေးသည့် ဗဟုသုတစာပေမျိုး၊ အင်္ဂရိတ်ပညာ, ဓာတုဗေဒ, သတ္တဗေဒ, ဂဏန်းသင်္ချာ–စသောဘာသာရပ်ဆိုင်ရာစာပေမျိုးတို့ကို မြန်မာစကားပြေသက်သက်ဖြင့် များများစားစားပေါ်ထွက်ဖို့လိုပြီဟူသော အသိတရားသည် အရှင်ဉာဏ၏ဦးနှောက်တွင်းသို့ စီးဝင်မိလေသည်။

## နေမျိုးဓမ္မကျော်သူ စာတော်ပြင်ဦးဘား

ပိဋကတ်တော်အုပ်မင်း၏မိတ်ဆက်ပေးမှုကြောင့် ပိဋကတ်မြန်မာပြန်လုပ်ငန်းများကိုဆောင်ရွက်နေသော ပညာရှိစာတော်ပြင်နေမျိုးဓမ္မကျော်သူဘွဲ့ခံဦးဘားနှင့်လည်း တွေ့ဆုံခွင့်ရခဲ့ပါသည်။

ဦးဘားသည် သက္ကရာဇ် ၁၁၉၉ (အေဒီ–၁၈၃၇)ခုနှစ်၊ ပင်းတလဲစီရင်စု လှည်းကူးမရွာဇာတိဖြစ်၍ ရဟန်းအမည် ဦးဝဇိရဉာဏဖြစ်သည်။ အမရပူရမြို့ ဗားကရာကျောင်းတိုက်၌ ဒုတိယဗားကရာသာသနာပိုင် အရှင်ပညာဇောတထံ၌ ပထမဆရာတော်ဘုရားကြီးဦးဇာဂရ၊ ဗန်းမော်ဆရာတော်ဦးပဏ္ဍိတ၊ ဒုတိယငါးခုနှစ်ဆရာတော်ဦးဒီပါလင်္ကာရ၊ အုတ်ဖိုဆရာတော်ဦးဥက္ကံဝံသမာလာ၊ ဒုတိယစံကျောင်းဆရာတော်ဦးသုဒဿန၊ ရေစကြိုဆရာတော်ဦးဝရသမ္ဘောဓိနှင့် နန်းတွင်းပညာရှိကြီးများအဖြစ်ထင်ရှားကြသော ပခန်းမင်းကြီးဦးရန်ဝေး(ဦးဝိသုဒ္ဓ)၊ ယောမင်းကြီးဦးဘိုးလှိုင်တို့နှင့်အတူ စာသင်ဖက်ဖြစ်ခဲ့ဖူးပါသည်။*၁

စာတော်ပြင်မြန်မာပညာရှိဆရာကြီးဦးဘားသည် ရဟန်းဝတ်မှထွက်ပြီး မင်းတုန်းမင်းကြီးလက်ထက်၌ ပိဋကတ်စာတော်များကို ပုဒ်,ပါဌ်,အက္ခရာသဒ္ဒါအနက် မပျက်မစီးရအောင်ပြင်ဆင်ရသော စာတော်ပြင်အဖြစ် အမှုတော်ကိုထမ်းခဲ့သည်။ နေမျိုးဓမ္မကျော်သူဘွဲ့ကိုလည်း သနားတော်မြတ်ခံခဲ့ရသည်။*၂ ပိဋကတ်တော်သမိုင်းစာတမ်းအရ နေမျိုးဓမ္မကျော်သူ စာတော်ပြင်ဦးဘားသည် ကင်္ခါဝိတရဏီပါဠိတော်နိဿယ၊ ဝိဘင်္ဂပကာသနီကျမ်း၊ မူလမောဂ္ဂလ္လာန်နိဿယ၊ ဝုတ္တိမောဂ္ဂလ္လာန်နိဿယနှင့် ဏွာဒိမောဂ္ဂလ္လာန်နိဿယတို့ကိုစီရင်၍ ပိဋကတ်တော်အုပ်မင်းဦးယမ်နှင့်တွဲဖက်၍ ဝိသုဒ္ဓိမဂ်ဋီကာနိဿယ၊ မဟာဝင်စာကိုယ်နိဿယစသည့်ကျမ်းတို့ကို စီရင်သောပုဂ္ဂိုလ်ကြီးဖြစ်ကြောင်းသိရ၏။

ဦးဘားသည် ရှေးစာကောင်းပေကောင်းတို့ကို ဖော်ထုတ်ခြင်း၌ဝါသနာအလေ့ကြီးမား၍ မြန်မာစကားပြေအရေးအသားထွန်းကားလာစေရန် ကြိုးပမ်းလိုသောဆန္ဒ အလွန်ပြင်းပြသည့်ပညာရှင်ပုဂ္ဂိုလ်ကြီးလည်းဖြစ်သည်။

---

*၁ အရှင်ကေလာသ၏ မန္တလေးသာသနာဝင်။ ပထမတွဲ။ ၁၉၈၀–ပြည့်နှစ်။ (စာမျက်နှာ–၃၈၀)။ လယ်တီဦးလှပိုင်၏ ပခန်းသာသနာဝင်။ ၁၉၈၁–ခုနှစ်။ (စာမျက်နှာ–၂၉)။ သပြေပင် သီရိသောဘနထေရ်၏ မဟာဒွါရနိကာယသာသနဝံသ ဒီပနီ။ ၁၃၃၆–ခုနှစ်။ (စာမျက်နှာ–၃၁၇)။ စာတော်ပြင်ဦးဘားသည် စာရေးဆရာကြီးဟံသာဝတီဦးဘရင်၏ အဖေဘက်မှ ဘေးတော်စပ်သည်။ ဟံသာဝတီဦးဘရင်၏ဦးဘရင်။ မာဃစာပေ၊ ရန်ကုန်မြို့။ ၁၉၇၃–ခုနှစ်။ (စာမျက်နှာ–၁၉)။ မန္တလေးရတနာပုံခေတ်က ဦးဘားအမည်နှင့်ထင်ရှားသော အခြားပုဂ္ဂိုလ်ကြီးတစ်ဦးမှာ ဝက်မစွတ်ဝန်ထောက်ကြီးဦးလတ်(ဒေါ်ဒဂုန်ခင်ခင်လေး၏ အဘိုး)၏ အစ်ကိုအကြီး စာရေးတော်ကြီးဦးဘားဖြစ်သည်။ ထိုစာရေးတော်ကြီးဦးဘားသည် နောင်အခါမဟာမင်းထင်ရာဇာဘွဲ့နှင့် တောင်ငူကိုးခရိုင်ဝန်မင်းဟုထင်ရှားခဲ့၏။ စာပေဗဟုသုတဝါသနာပါသူလည်းဖြစ်၏။ သုဝိစိတ္တဂဏ္ဍဝိဘာသန်ကျမ်းကိုလည်း ပြုစုခဲ့၏။ ထိုတောင်ငူခရိုင်ဝန်မင်း ဦးဘားအကြောင်းကို ပုဂံဝန်ထောက်မင်းဦးတင်၏ ကဗျာဗန္ဓသာရကျမ်း။ (စာမျက်နှာ–၃၄၁)။ ဒေါ်ဒဂုန်ခင်ခင်လေး၏ ဝက်မစွတ်အတ္ထုပ္ပတ္တိစာပေများ။ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ–၁၇၊ ၂၁၊ ၂၂)။ ဆရာဇေယျ၏ မကိုင်ရသေးရှူ(ဆောင်းပါး)။ မြဝတီမဂ္ဂဇင်း၊ ၁၉၅၉–ခုနှစ်။ စက်တင်ဘာလတို့၌ဖော်ပြထား၏။

*၂ ဦးယမ်၏ ပိဋကတ်တော်သမိုင်း (အပိုဒ်–၅၀၈)။ ၁၉၀၅–ခုနှစ်။ (စာမျက်နှာ–၇၃)။

**မြန်မာအမျိုးသားများအတွက်လိုအပ်နေသောစာပေ**

အရှင်ဉာဏ၊ စာတော်ပြင်ဦးဘားနှင့် ပိဋကတ်တော်အုပ်မင်းဦးယမ်တို့သည် ပိဋကတ်သုံးပုံကို ထုံးလိုမွှေရေလိုနှောက်၍ ပါဠိစာပေကိုလည်း ဒိုးလိုမွှေနိုင်လောက်ကျွမ်းကျင်ကြသည့် ပါဠိစာပေပညာရှင်ကြီးများဖြစ်ကြသော်လည်း 'ပါဠိနှင့်ဝေးနေသော မြန်မာအမျိုးသားများအတွက် ဖတ်ရှုရန်စာပေကိုကား ပါဠိမဖက်ဘဲ မြန်မာစကားသက်သက်ဖြင့် ရှင်းရှင်းလင်းလင်းရေးသားကြလျှင် ကောင်းပေမည်'ဆိုသောအယူအဆကို သဘောတူကြပြီး ထိုအကြောင်းကိုသာ နေ့ရှိသရွေ့ ဆွေးနွေးနေခဲ့ကြလေသည်။

ပိဋကတ်တော်အုပ်မင်းဦးယမ်က မြန်မာစကားတိုးတက်ရေးအတွက်ဆိုလျှင် မြန်မာဝေါဟာရစစ်စစ်ကို သုံးစွဲကြရန်လိုလားသည်။ မြန်မာစကားအကြား ပါဠိစကားလုံးဝင်ရောက်ခြင်းကိုပင် မနှစ်သက်။ တစ်ကြိမ်သောအခါက နန်းတွင်းသို့မေတ္တာစာဆက်သွင်းကြရာ ဆရာတော်အချို့က 'မြန်မာ'ကို မနှစ်လုံးဆင့်နှင့် 'မြမ္မာ'ဟု စာလုံးပေါင်းရေးပြီး စာသွင်းကြ၏။ ထို့ပြင် 'အပုပ်'ကိုလဲ 'ပုတိ'ဟူသော ပါဠိသဒ္ဒါကလာ၍ 'ပု–တွင် တ–သတ်'၍'အပုတ်'ဟုရေးကြ၏။ ဤသို့ရေးသားခြင်းမှာ လွဲမှားနေကြောင်း ဦးယမ်က ဆရာတော်တို့အားလျှောက်ထား၏။ ဆရာတော်တစ်ပါးက 'မြန်မာကို ကျောက်စာများမှာ မရမ္မ–ဟု ပါဌ်စီထားသည့်အတွက် မြမ္မာ–ဟုရေးခြင်းဖြစ်ကြောင်းနှင့် အပုပ်မှာလည်း ပုတိ–ဟုပါဠိရှိ၍ 'တသတ်'ဖြင့် 'အပုတ်'ရေးကြောင်း မိန့်တော်မူကြ၏။ ထိုအခါ ပိဋကတ်တော်အုပ်မင်းက မိမိဗိုက်ကိုလက်နှင့်ပုတ်ပြပြီး 'ကျောက်စာ, ပါဠိဝိဂြိုဟ်များမှာ ငယမ့်ဗိုက်တွင်အပြည့်ရှိသည်၊ မင်းနှင့်စပ်သောလောကမှုများတွင် 'ရာဇာနံအနုဝတ္တိတုံ'ဟူသောပါဌ်နှင့် မြတ်စွာဘုရားခွင့်ပြုတော်မူသောအရာကို ဆရာတော်တို့ သိတော်မူကြပြီးဖြစ်သည်၊ ဆရာတော်တို့ကျောင်းများမှာ ဆရာတော်တို့အလိုရှိရာ မည်ကဲ့သို့ပင်ရေးသော်လည်း ရွှေနန်းတော်ကေရာဇ်မင်းမြတ်ရှေ့တော်သို့သွင်းသော သီတင်းစဉ်တရားစာများမှာ ရွှေနန်းရွှေဘုံရေးရိုး ရေးထုံးဆုံးဖြတ်ချက်အတိုင်းသာ လိုက်နာတော်မူကြပါ'ဟု လျှောက်ထားခဲ့၏။*၁ ဤအချက်ကိုထောက်ပါက ပိဋကတ်တော်အုပ်မင်းသည် မလိုအပ်သောနေရာတို့၌ ပါဠိဘာသာအားကိုးဖြင့် မြန်မာဝေါဟာရပြုပြင်မှုကို အလိုမရှိကြောင်း ထင်ရှားလှပေသည်။

အရှင်ဉာဏကလည်း ဘာသာရေးစာပေတို့ကိုရေးသားရာတွင် တရားတော်၏အနှစ်သာရလိုရင်းကိုသိရှိနိုင်ရေးတွက် ပါဠိပါဌ်သားများစွက်၍ရေးသားခြင်းထက် မြန်မာစကားသက်သက်ဖြင့်ရေးသားခြင်းက ပို၍ထိရောက်မည်၊ ပို၍နားဝင်မည်၊ ပို၍တရားနှလုံးသွင်းဆင်ခြင်နိုင်မည်ဟူသောအယူအဆရှိပြီးဖြစ်ပါသည်။ ထို့ကြောင့်ပင် ပါဠိပါဌ်သားကို နေရာတိုင်းမသုံးဘဲ မြန်မာစကားသက်သက်ဖြင့်သာ ရေးသားသောအလေ့ရှိခဲ့၏။ ထိုအလေ့နှင့်စပ်၍ 'ပါဠိပါဌ်သားမပါသည်ဟုမအောက်မေ့နှင့်၊ ပါဠိပါဌ်သားနှင့်ရေးလျှင် စကားစဉ်စကားဆက်ကွာလှမ်း၍ ပြောတတ်ဟောတတ်ရှိရုံမျှကိုပင် အင်မတန်ကြီးကြဲရလိမ့်မည်'ဟုလည်းကောင်း၊ 'ပါဠိသံကျမ်းသံနှင့်ပြော၍

---

*၁ မင်းသုဝဏ်၏ ပန်းနှင့်ပင်စည်။ ကမ္ဘာ့ခေတ်စာပေတိုက်၊ မန္တလေးမြို့။ ၁၉၆၅–ခုနှစ်။ (စာမျက်နှာ–၂၇)။

နေလျှင် စကားကြီး၏၊ ခန့်၏။ ပြောနေကျမြန်မာစကာမျိုးမဟုတ်၍ အသိဉာဏ်တန်းခနဲ စိုက်ခနဲ မသွား၊ ယောင်ဝါးကြီးနေကြ၏'ဟုလည်းကောင်း မိမိ၏ဆန္ဒကို ထုတ်ဖော်တင်ပြတော်မူခဲ့ဖူးပါသည်။*၁

အရှင်ဉာဏသည် ပထမစာတော်ချဘုန်းကြီးအဖြစ် စံကျောင်းတိုက်၌သီတင်းသုံးစဉ်အခါက သီတင်းနေ့တိုင်း စာဝါနားသည့်အခါ ဘာအကြောင်းနှင့်မှမပျက်မကွက်စေဘဲ ဝတ်ထားကာ လူပညာရှိစကားတတ်,စာတတ်ပေတတ် ပုဂ္ဂိုလ်ကြီးများထံသွားရောက်ပြီး မြန်မာဘာသာပြန် လုပ်ငန်းအတွက်ဆွေးနွေးခဲ့ပုံ၊ နည်းခံခဲ့ပုံတို့ကို နောင်အခါ တရားပွဲတစ်ခုတွင် ဤသို့လျှင် ပြန်လည်မိန့်တော်မူခဲ့ပါသည်။

'လယ်တီဆရာတော်ဟောပြောတဲ့တရားကလဲ ပါဠိတစ်တိုတစ်စ တစ်ပုဒ် တစ်ဂါထာမျှမပါဘဲ မြန်မာစကားပြင်သက်သက်ဖြင့် ဆားမပါတဲ့ဟင်းလို ပေါ့ပျက်ပျက် ရှိလှချေရဲ့–ဟု ပြစ်တင်စကားကဲ့ရဲ့သံများကိုကြားရတယ်ကွဲ့။ သို့အတွက် သည်နေ့ ညဥ့်တရားပွဲမှာ ပါဠိထည့်ပြီးဟောရလိမ့်ဦးမယ်၊ ကိုင်း–နားထောင်ကြကွဲ့။

ဟေတုပစ္စယော...အဲဒါပါဠိကွဲ့၊ နားလည်ကြရဲ့လား။ အဲဒီပါဠိက ပဋ္ဌာန်းပါဠိ တော်ကြီးမှာ အစဖြစ်တဲ့ အခြေခံပါဠိတော်ကွဲ့။ ဒို့ မြန်မာလူမျိုးတွေခက်နေတာက ကိုယ်နားမလည်တဲ့ ကိုယ်မပိုင်တဲ့ပါဠိများကိုရွတ်ဆို၍ မြိုင်မြိုင်ဆိုင်ဆိုင် လှိုင်လှိုင်ကြီး ဟောပြောတဲ့ပုဂ္ဂိုလ်မျိုးကိုမှ လူတော်, လူကောင်း, လူတတ်, လူမြတ်, လူသမတ်– ဟု ပင့်မြှောက်ချီးကျူးကြတယ်။ ဒို့မြန်မာလူမျိုးမှာ မြန်မာလို့တိကျမှန်ကန်စွာပြန်ဆို၍ မြန်မာ့နားမှာ ကွက်ကွက်ကွင်းကွင်း ထင်းခနဲလင်းခနဲ, ဝင်းခနဲရှင်းခနဲ မြင်လုံး ထွားအောင် မြန်မာဆန်ဆန်ဘာသာပြန်ကိန်းကြီးလိုနေတယ်ကွဲ့။

ပဋ္ဌာန်း(၂၄)ကျမ်းကို နှုတ်ငုံဆောင်ပြီး ဟောကြားလို့နာတဲ့သူက နာသော်လည်း အနက်အဓိပ္ပာယ် မြန်မာပြန်ကိန်းကြီးချက်မပိုင်လျှင် ဟောသူနာသူမှာ ကုသိုလ် တော့ဖြစ်ရပါရဲ့၊ ဓမ္မရသ=တရားအရသာ၊ ဓမ္မသဘာဝ=တရားသဘောကိုတော့ ရယူခံစားနိုင်တဲ့အခြေအနေမဆိုက်ဘူးကွဲ့။

ပါဠိအကိုးအကားများလို့ လူသာမန်တို့မဖတ်နိုင်ဘဲ ခက်ခဲနက်နဲမှသာ ကျမ်းပြု ဆရာ ဂုဏ်ထင်ပေါ်ကြသဖြင့် ပါဠိအကိုးအကားများစွာဖြင့်ထုတ်ဆောင်ကြရသော ကြောင့် ပါဠိမကျွမ်းကျင်ကြသော မြန်မာလူမျိုးများမှာ 'ဓမ္မရသ=တရားအရသာ' များကိုမခံစားကြရဘဲ ကုသိုလ်ရရုံမျှလောက်နဲ့သာ တစ်ဘဝပြီးဆုံးသွားကြရလေ တော့တယ်။

ငါတို့ မန္တလေးစံကျောင်းတိုက်တွင် စာသင်သားအဖြစ်နေစဉ် ဤအခက်အခဲ ကြီးတွေကိုကျော်လွှန်နိုင်အောင် ငါစာတတ်လျှင် မြန်မာလူမျိုးများအတွက် မြန်မာ

*၁ လယ်တီဆရာတော်ကြီး၏ ဥတ္တမပုရိသဒီပနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ–၄၄)။

ပြန်ဆိုမှုလုပ်ငန်းစဉ်ကြီးကို တွင်ကျယ်စွာလုပ်မယ်ဟု မြန်မာစကားအပြောအဆို တတ်သီးလိမ္မာကြကုန်သော ရွှေပြည်ဝန်ကြီးဦးဘိုးလှိုင်၊ လူပညာရှိကြီး စာတတ်ပေတတ် စကားတတ် ဦးဘားတို့ထံ သီတင်းနေ့တိုင်း ဝတ်ထားပြီး မြန်မာစကားလေ့လာပြောကြား ဆွေးနွေးမှုများပြုလုပ်ခဲ့တယ်'*၁-ဟူ၍ဖြစ်သည်။

အထက်ပါမိန့်ကြားတော်မူချက်များကိုကြည့်လျှင် အရှင်ဉာဏသည် စာပေကျမ်းဂန်ပြုစုရာဝယ် စာဖတ်သူအထင်ကြီးစေရန်ဖြစ်စေ၊ ပညာရှိလူအနည်းငယ်တို့သိရှိစေရန်ဖြစ်စေ ရည်ရွယ်တော်မမူဘဲ လူအများစုတတ်သိနားလည်ရေးကိုသာ ရည်သန်တော်မူ၍ စာပေရေးသားလိုသော ဆန္ဒမျိုးရှိကြောင်းကိုသိနိုင်သည်။

**ဒွါဒသမဝါဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၃၉-ခုနှစ်၊ ဝါဆိုလ(အေဒီ-၁၈၇၈၊ ဇူလိုင်လ)တွင် စာချဘုန်းကြီးအရှင်ဉာဏသည် မန္တလေးမြို့ မြောက်ပြင်စံကျောင်းတိုက်ကြီးမှာပင် (၁၂)ကြိမ်မြောက် ဒွါဒသမ ဝါကို ကပ်ဆိုတော်မူခဲ့ပါသည်။

အရှင်ဉာဏသည် စံကျောင်းတိုက်ကြီးသို့ စတင်ရောက်သည်မှစ၍ အခြားသောစာသင်သားသံဃာများနည်းတူ စံကျောင်းတိုက်ကြီးဝေယျာဝစ္စကို ပါဝင်ဆောင်ရွက်တော်မူခဲ့ပါသည်။ စာချဘုန်းကြီးဖြစ်လာသောအခါ တိုက်ထုံးစံအရ တိုက်တာ၏ဝေယျာဝစ္စကိုဆောင်ရွက်ရန် မလိုတော့ပြီဖြစ်သော်လည်း မိမိ၏အနီးနေတပည့်သံဃာများကို အထူးစောင့်ရှောက်ပြီးလျှင် တိုက်တာ၌ဖြစ်ပေါ်သော သံဃာ့ဝေယျာဝစ္စတို့ကိုလည်း တတ်အားသမျှဆောင်ရွက်တော်မူခဲ့ပါသည်။ ထိုသို့ဆောင်ရွက်ရာတွင် မိမိကိုယ်မိမိ သာသနာ့ကျွန်, သံဃာ့ကျွန်ဟုခံယူကာ ပိုင်ပိုင်နိုင်နိုင်ဆောင်ရွက်တော်မူခြင်းမျိုးဖြစ်ပါသည်။ အထူးသဖြင့် တစ်ပါးသူတို့မဆောင်ရွက်ချင်သော ကနုတ်*၂ ဆေးခြင်း၊ ကုဋီ*၃ကိုဆေးကြောသန့်စင်ခြင်း၊ ခြေဆေးရေတည်ခြင်းစသောအလုပ်မျိုး၌ အထူးဝါယာမစိုက်၍ ကြိုးပမ်းဆောင်ရွက်တော်မူခဲ့ပါသည်။

**ဆေးဆရာဘဝ**

အရှင်ဉာဏသည် ယောမင်းကြီး၏အရင်းနှီးဆုံးဆရာဒကာဖြစ်သည့်အတိုင်း ယောမင်းကြီးထံမှ ဆေးကျမ်း၊ ဓာတ်ကျမ်း၊ သွေးစမ်းကျမ်း(နာဍိဝိနိစ္ဆယ)မှစ၍ ဆေးဝါးဗဟုသုတဆိုင်ရာကျမ်းစာတို့ကိုငှားရမ်းဖတ်ရှုမှတ်သားခဲ့ပြီး အားလပ်ချိန်တို့တွင် ထင်ရှားကျော်ကြားသောဆေးဆရာ ဓာတ်ဆရာစသူတို့နှင့်လည်း ဆွေးနွေးလေ့ရှိခဲ့ပါသည်။*၄

*၁ လယ်တီဦးလှပိုင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၇၄)။

*၂ ကနုတ်=သံဃာတော်များ ကုဋီတက်ရာတွင်သုံးသော တုတ်ချောင်း။ ကန < (မွန်) ကဖော် = ချေး၊ အညစ်အကြေး။ ဦးဝန်၏ တက္ကသိုလ်မြန်မာအဘိဓာန်၊ ၁။ ၁၉၅၂-ခုနှစ်။ (စာမျက်နှာ-၆)။

*၃ ကုဋီ = သံဃာတော်တို့ကျင်ကြီးကျင်ငယ်စွန့်ရာအိမ်။ (ပါဠိ) ဝစ္စကုဋီ < ကုဋီ။ ယင်း။ ၁၉၅၂-ခုနှစ်။ (စာမျက်နှာ-၂၁)။

*၄ ဒဂုန်ဦးထွန်းမြင့်၏ လယ်တီဆရာတော်။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ-၁၂။ (စာမျက်နှာ-၁၁၆)။

ထိုစဉ်အခါက စံကျောင်းတိုက်ကြီးအတွင်း၌ သူနာရဟန်းရှိလျှင် အပြင်မှဆေးဆရာမခေါ်ဘဲ တိုက်တွင်းသမားတော်ဟုအသိအမှတ်ပြုခံရသော အရှင်ဉာဏက ရှေးဦးပထမပြုစုရပေသည်၊ အရှင်ဉာဏသည် သူနာရဟန်းကိုပြုစုရာ၌ ဘုရားရှင်ကိုယ်တော်မြတ်ကြီး၏ 'ချစ်သားတို့ သင်တို့မှာ ဖခင်လည်းမရှိ၊ မိခင်လည်းမရှိ၊ တစ်ယောက်မမာမကျန်းရှိခဲ့သော် တစ်ယောက်သောရဟန်းက ပြုစုရမည်' ဟူသော ဩဝါဒတော်အတိုင်း စိတ်အားထက်သန်စွာပြုစုစောင့်ရှောက်တော်မူပါသည်၊

စံကျောင်းတိုက်အတွင်း၌ 'မကျန်းမမာသောပုဂ္ဂိုလ်တစ်စုံတစ်ဦးရှိပါက တပည့်တော်အား ပြောကြားတော်မူကြပါ။ တပည့်တော် ဂိလာနုပဋ္ဌာက သူနာအလုပ်အကျွေးပြုလိုပါသည်ဘုရား' ဟူ၍ပင် အရှင်ဉာဏကဖိတ်မန်ထားတော်မူခဲ့ပါသည်။ ဖိတ်ကြားသည့်အတိုင်းလည်း မကျန်းမမာသူ ပေါ်ပေါက်ခဲ့လျှင် ဆေးဝါးပေး၍ ကုသတန်ကုသခဲ့သည်။ ဓာတ်စာလိုအပ်ပါက ဓာတ်စာသည် ရှာဖွေ၍ကျွေးမွေးသည်။ ညဉ့်အိပ်ညဉ့်နေ ကိုယ်တိုင်ကိုယ်ကျစောင့်ရှောက်ပေးရမည့်သူနာကို စောင့်ရှောက်ပေးပါသည်။ ထိုမျှမက သူနာရဟန်း၏သင်္ကန်း,အခင်းစသည်တို့ကိုလည်း လျှော်ဖွတ်သန့်စင်ပေးတော်မူပါသည်။

အရှင်ဉာဏ၏မေတ္တာစေတနာကား ဤမျှမဟုတ်သေး။ ကိုယ်တိုင်ပြုစုရန်အချိန်မရခဲ့လျှင် ထိုဂိလာနပုဂ္ဂိုလ်ရှိသောကျောင်းသို့ မိမိထံမှာရှိသည့် အုန်းသီး,ငှက်ပျောသီးစသော စားဖွယ် သောက်ဖွယ်တို့ ပို့ပေးထား၏။ လူမမာမစားမသောက်နိုင်သော်လည်း လူမမာပြုစုရန်လာကြ ကုန်သောပုဂ္ဂိုလ်များ များများစားသောက်နိုင်ကြလျှင် လူနာကိုပို၍ဂရုစိုက်ကြမည်ဟုရည်ရွယ်က ပေးပို့လှူဒါန်းတော်မူခြင်းဖြစ်သည်။ မိမိ၏ပထမစာတော်ချအဖြစ် အလှူခံရသောဆွမ်းဆန်တော်ကို အသုံးပြု၍ လူနာအတွက်အနိုပ်လိုပါကလည်း အနိုပ်သမားတို့ကိုခေါ်ယူ ပြုစုစောင့်ရှောက် စေခဲ့ပါသည်။ ဆရာသမားကျေးဇူးရှင်ကြီးများအပေါ်၌လည်းကောင်း၊ သီတင်းသုံးဖော်သံဃာ အချင်းချင်းအပေါ်၌လည်းကောင်း၊ မိမိအောက်တပည့်စာသင်သားများအပေါ်၌လည်းကောင်း ဖြူစင်သောစေတနာမေတ္တာဖြင့် စောင့်ရှောက်တော်မူခဲ့သော အရှင်ဉာဏအား စံကျောင်းတိုက် သံဃာတော်များကလည်း အားကိုးယုံကြည်ချစ်ခင်လေးစားခဲ့ကြပါသည်။*၁

အရှင်ဉာဏသည် ကိုရင်ဘဝကပင် ဗေဒင်ပညာကိုသင်ယူခဲ့ပြီး မဟာသုဓာတကဗေဒင် ကျမ်းပြုယောမင်းကြီးနှင့် နီးနီးစပ်စပ်နေရသည်ဖြစ်၍ နက္ခတ်ဗေဒင်ဆိုင်ရာကျမ်းဂန်များကို ဗဟုသုတအလို့ငှာ ဖတ်ရှုတော်မူခဲ့ပြန်ပါသည်။ ဗေဒင်ပညာတွင်လည်း ထူးထူးချွန်ချွန်သိမြင် တတ်မြောက်တော်မူခဲ့၍ ဗေဒင်ဟောပြောခြင်းလည်းမကင်းခဲ့ပေ။ သို့သော် စာချဘုန်းကြီးဘဝသို့ ရောက်သော်အခါ ဤမသန့်ရှင်းသောအလုပ်ကိုမလုပ်လိုတော့ပြီဖြစ်၍ မိမိထံလာသူများကို 'ဗေဒင်စာအုပ်တွေမီးရှို့ပြီး ပညာတွေမီးပူဇော်လိုက်ပြီ၊ ကျုပ်ဘာမှ မတွက်တတ်တော့ဘူး' ဟု စကားပိတ်ပြောပြီး နှင်လွှတ်တော်မူခဲ့ပါသည်။*၂

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၁၉၇)။ မောင်ဒီပ၏ လယ်တီဆရာတော်။ စာပေဗိမာန်စာပဒေသာ၊ ရန်ကုန်မြို့။ (စာမျက်နှာ-၅၆)။

*၂ မုံရွာမြို့၊ ရတနာပုံရပ်နေ ဆရာကြီးဦးစိုးဂေါင် (၂၃-၄-၇၆)နေ့ပြောပြချက်ဖြစ်သည်။

တေရသမဝါဆိုတော်မူခြင်း

သက္ကရာဇ် ၁၂၄၀–ပြည့်နှစ်၊ ဝါဆိုလ(အေဒီ ၁၈၇၈–ခုနှစ်၊ ဇူလိုင်လ)တွင် အရှင်ဉာဏသည် မြောက်ပြင်စံကျောင်းတိုက်ကြီး၌ (၁၃)ကြိမ်မြောက် တေရသမဝါကို ကပ်ဆိုတော်မူပါသည်။ ထို ၁၂၄၀–ပြည့်နှစ်ကား မန္တလေးရွှေမြို့တော်ကြီး၌ မင်းပြောင်းမင်းလွှဲဖြစ်တော့မည့်အရေးကြောင့် တိုင်းကားမြို့ရွာ မငြိမ်မသက်ဖြစ်လျက်ရှိသော အချိန်ကာလဖြစ်သည်။

မင်းပြောင်းမင်းလွှဲ

မင်းတုန်းမင်းကြီးသည် သက္ကရာဇ် ၁၂၃၉–ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် ၁၀–ရက် (အေဒီ–၂၉၊ နိုဝင်ဘာလ၊ ၁၈၇၇)တွင် ရွှေမြို့တော်အရှေ့ပြင် မဟာအတုလဝိဇိတာရာမတိုက် မဟာအတုလဝေယန်ကျောင်းတော်ကြီး အပြောက်အမွမ်းတင်ပြီးစီးခဲ့လေရာ ထိုကျောင်းကြီးသို့ရေစက်ချလှူဒါန်းရန် ကြွချီတော်မူခဲ့ပါသည်။*၁ အတုလဝေယန်ကျောင်းတော်ကြီး၌ မင်းတုန်းမင်းကြီးသည် ဘုရားဝတ်ပြုရန်ပြင်ခိုက် မိုက်ခနဲဖြစ်ကာ လဲကျမလိုဖြစ်သွားသည်။ အနီးရှိ သမီးတော်တစ်ပါး၏ပခုံးကို လှမ်းကိုင်မိ၍သာ လဲမကျဘဲဖြစ်ခဲ့ရသည်။ ချက်ချင်းပင် ယာယီစံနန်းသို့ပြန်ကြွတော်မူပါသည်။ ထိုမှတစ်ဖန် မသက်သာ၍ နန်းတော်သို့ဝင်တော်မူခဲ့၏။

ထိုအချိန်မှစ၍ မင်းတုန်းမင်းကြီးသည် မူးဝေသောရောဂါရရှိခဲ့ပြီး ထိုဝေဒနာမှတဖန် လေရောဂါ၊ ဝမ်းကိုက်ရောဂါ စသည်တို့ဖြစ်ပွား၊ ထိုမှအဖျားဝင်ကာ တစ်နေ့တခြား ရောဂါတိုး၍လာခဲ့သည်။ မင်းတုန်းမင်းကြီးသည် ညီနောင်ကနောင်မင်းသားကွယ်လွန်ပြီးစကပင် အိမ်ရှေ့စံနေရာအတွက် နန်းလျာ မထားခဲ့၊ ယခုလို မင်းတုန်းမင်းကြီးရောဂါဝေဒနာစတင်ဖြစ်ပွားတော်မူလျှင် ထီးနန်းဆက်ခံရေးအတွက် အိမ်ရှေ့စံနေရာ မည်သည့်မင်းသားရလာမည်ဟူသောသတင်းကို နန်းတွင်းနန်းပြင်သာမက တစ်နိုင်ငံလုံးကပါ စိတ်ဝင်တစားရှိနေကြသည်။ အကြောင်းမှာ မင်းတုန်းမင်းကြီး၌ ထီးနန်းကိုဆက်ခံနိုင်သည့်အရည်အချင်းရှိသော သားတော်ကြီးများစွာ ရှိနေသောကြောင့်ဖြစ်သည်။ သို့ပါ၍ မင်းတုန်းမင်းကြီးအပါအဝင် မိဖုရားကြီး၊ မှူးကြီးမတ်ကြီးတို့ပါ မည်သည့်သားတော်ကို နန်းလျာထားရမည်ကို မကြံတတ်အောင်ရှိနေကြ၏။

မင်းတုန်းမင်းကြီးလည်း ထိုသို့နန်းညွှန့်နန်းလျာပြဿနာပေါ်ပေါက်နေကြောင်းသိရသောအခါ နာဖျားလျက်ပင် လှုပ်လှုပ်ရှားရှားဖြစ်နေသောတိုင်းနိုင်ငံအခြေအနေကို ထိန်းသိမ်းသောသဘောဖြင့် သက္ကရာဇ် ၁၂၄၀–ပြည့်နှစ်၊ ဝါခေါင်လဆန်း ၁၂–ရက် (အေဒီ–၉၊ ဩဂုတ်လ၊ ၁၈၇၈)တွင် ဝန်ကြီး,အတွင်းဝန်,ဝန်ထောက်,မှူးထောက်,မတ်ထောက်တို့ကို ရွှေနန်းတော်ကြီး နန်းဦးဘုရားရှေ့တွင် သစ္စာတော်ခံစေ၍ နာခံတော်နေမျိုးမင်းထင်စည်ကို သစ္စာတော်ပြန်တမ်းဖတ်စေရာ ထိုသစ္စာတော်ပြန်တမ်း၌ ‘ငါ့ကိုသာအရှင်မှတ်၊ ငါမှတစ်ပါး ငါညွှန်ပြသည်ကိုသာ အရှင်မှတ်’ ဟူသော စကားခွန်းကို ထည့်၍ပြန်ခဲ့ပေ၏။*၂

---

*၁ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၄၃၂)။

*၂ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၄၃၃)။

မင်းတုန်းမင်းကြီးကို အနီးကပ်၍ပြုစုနေသူ ဆင်ဖြူမရှင်မိဖုရားကြီး(အေဒီ ၁၈၂၁–၁၉၀၀) သည် ထိုအချိန်က ဩဇာအလွန်ကြီးနေခဲ့၏။ ဆင်ဖြူမရှင်မိဖုရားကြီးက ကင်းဝန်မင်းကြီး (အေဒီ ၁၈၂၁–၁၉၀၈)ကို အိမ်ရှေ့နန်းလျာအဖြစ် လောင်းရှည်မိဖုရား(အေဒီ ၁၈၁၅?–၁၈၈၁)၏ သားတော် သုသီရိမဟာဓမ္မရာဇာ သီပေါမြို့စားမင်းသားကိုထားရန်မသင့်လောဟု တိုင်ပင်သည်။ ကင်းဝန်မင်းကြီးက အကြောင်းများစွာကိုထောက်ထားဆင်ခြင်ပြီး ဆင်ဖြူမရှင်၏အဆိုကို လက်ခံကာ ရွှေနန်းတော်တောင်ဘက် ပန်းတင်ခုံအုတ်တိုက်တွင် မှူးမတ်များကိုအစည်းဝေးခေါ်၍ ထိုအကြံကိုတင်ပြရာ မှူးမတ်များကလည်းသဘောတူခဲ့ကြပြန်သည်။

သို့ပါသော် သီပေါမင်းသားကို အိမ်ရှေ့စံအမိန့် ရုတ်တရက်ထုတ်ပြန်လိုက်ပါက ကျန်ရှိသားတော်ကြီးများက ဆူပူထကြွကြမည်စိုး၍ အိမ်ရှေ့စံအမိန့်ကိုမထုတ်သေးဘဲ မင်းအမိန့်ကို အသုံးပြုကာ သားတော်များကို နန်းတော်သို့အခစားဝင်ကြစေဟုဆင့်ခေါ်ခဲ့၏။ ညောင်ရမ်းမင်းသားညီနောင်က နန်းတော်သို့ခေါ်သည့်အကြောင်းကိုရိပ်မိပြီး အင်္ဂလိပ်သံရုံးသို့ခိုဝင်သွားကြ၏။

ကျန်သားတော်များမှာ ခမည်းတော်မင်းကြီး၏အမိန့်အတိုင်း နန်းတွင်းသို့လာကြရာ ဖြတ်ကိုက်တော်အရောက်တွင် အဖမ်းခံကြရ၏။ မယ်တော်မိဖုရားကြီးများကမကျေနပ်၍ မင်းတုန်းမင်းကြီးထံဝင်ရောက်ကာ သံတော်ဦးတင်ရန်ကြိုးပမ်းကြရာ ဆင်ဖြူမရှင်မိဖုရားကြီး၏အစောင့်အရှောက်များ ထူထပ်စွာချထားသောကြောင့် မင်းတရားကြီးထံတော်သို့ ဦးတိုက်လျှောက်ထားခွင့်မရကြပေ။ သို့နှင့်ပင် ၁၂၄၀–ပြည့်နှစ်၊ တော်သလင်းလဆုတ် ၉–ရက် (အေဒီ–၁၉၊ စက်တင်ဘာလ၊ ၁၈၇၈) တွင် သားတော်သီပေါမင်းသားကို အိမ်ရှေ့နှင်းကြောင်းအမိန့်ထွက်ပေါ်လာ၏။*၁

ထိုအချိန်၌ မင်းတုန်းမင်းကြီး၏ကျန်းမာရေးမှာ ပြန်လည်ကောင်းမွန်လာပြန်၍ လင်ပန်းတိုက်စားမိဖုရားကဦးဆောင်၍ သားတော်၊ မြေးတော်၊ တူတော်များကို ခြေချင်းစွဲရိုက်ဖမ်းထားကြောင်းကို ဝင်ရောက်လျှောက်ထားရာ၊ မင်းကြီးက သားတော်များအကျဉ်းချုပ်မှလွှတ်၍ ရှေ့တော်ဝင်ရောက်ကြစေဟု အမိန့်တော်ထုတ်ပြန်၏။ သားတော်များရှေ့တော်သို့ရောက်ကြလျှင် သားတော်သုံးဆယ်မင်းသား(အေဒီ ၁၈၆၂–၁၈၇၉)ကို ချင်းတွင်းကြောင်း၊ သားတော်မက္ကရာမင်းသား(အေဒီ ၁၈၄၇–၁၈၇၉)ကို တောင်တွင်းကြီးကြောင်း၊ သားတော်ညောင်ရမ်းမင်းသား(အေဒီ ?–၁၈၈၆)ကို အောက်မြစ်စဉ်ကြောင်းစသည်ဖြင့် အသီးသီးဘုရင်ခံခန့်တော်မူပါသည်။ ကျန်သားတော်၊ သမီးတော်တို့ကိုလည်း နန်းတွင်း၌နေလိုကနေစေ၊ နောင်တော်ကြီးသုံးပါးတွင် နှစ်သက်ရာ နောင်တော်ကြီး၏နောက်သို့ အတူလိုက်လိုကလိုက်ကြစေဟုအမိန့်တော်ထုတ်ပြီးလျှင် သားတော်ကြီးသုံးပါးကို ယခုချက်ချင်း တာဝန်ကျရာဌာနအသီးသီးသို့သွားကြဟု အမိန့်တော်ရှိလေရာ မင်းမောင်နှမတို့မှာ မခွဲခွာကြမီ မြောက်ဥယျာဉ်တော်၌တွေ့ဆုံနှုတ်ဆက်နေကြ၏။

*၁ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၄၃၄)။ ROB, IX. Page-898, 899.

ဆင်ဖြူမရှင်မိဖုရားကြီးနှင့် အမှူးအမတ်များတိုင်ပင်ပြီး မင်းညီမင်းသားတို့သာမက မင်းဆီမင်းသွေး မင်းမိသားတစ်စုလုံးကို ပြန်လည်ဖမ်းဆီးခဲ့ကြ၏။ ထိုစဉ် မင်းတုန်းမင်းကြီး၏ရောဂါအခြေအနေမှာအလွန်ဆိုးဝါးကာ သက္ကရာဇ် ၁၂၄၀–ပြည့်နှစ်၊ သီတင်းကျွတ်လဆန်း ၆–ရက်၊ အင်္ဂါနေ့ (အေဒီ–၁၊အောက်တိုဘာလ၊၁၈၇၈)တွင် လူ့ပြည်ငြီး၍ နန်းပြည်ပြောင်းစံတော်မူပါသည်။*၁ ထိုနေ့မှာပင် သီပေါမင်းသားသည် ခမည်းတော်ဘုရား၏အရိုက်အရာတော်ကိုသိမ်းမြန်း၍ ကုန်းဘောင်မင်းဆက်၏ ဆယ့်တစ်ဆယ့်မြောက်မင်းဖြစ်တော်မူခဲ့ပါသည်။*၂

တိုင်းရေးပြည်ရေးရှုပ်ထွေးနေသော်လည်း

ဤသို့ တစ်မင်းလွန်၍တစ်မင်းတက်ကာ အဖမ်းအဆီးအကွပ်အညှပ်ထူပြော၊ တိုင်းရေးပြည်ရေးအလွန်ရှုပ်ထွေး၊ ဤသို့ ကမောက်ကမခေတ်ဆိုးချိန်ခါသမယဝယ် ခေတ်ကာလ၏ဖြစ်ပျက်သမျှအဝဝကို ကိုယ်နှင့်မဆိုင်၊ သူ့သဘောဓမ္မတာဖြစ်မြဲတိုင်း ဖြစ်နေကြခြင်းသာဟု ဥပေက္ခာပြုနေတော်မူသည့်အရှင်ကား စံကျောင်းတိုက်၏ပထမစာတော်ချ အရှင်ဉာဏဖြစ်တော့သည်။

အရှင်ဉာဏသည် ရဟန်းခုနစ်ဝါ,ရှစ်ဝါရလောက်သည့်အချိန်ကစ၍ မောဂ္ဂလ္လာန်သဒ္ဒါကျမ်းကြီး၏အဖွင့်ကျမ်းကို ရေးသားအံ့ဟုအကြံဖြစ်တော်မူခဲ့ပြီး ပါဠိတော်အဋ္ဌကထာနှင့်တကွသော ပိဋကတ်သုံးပုံမှ တွေ့တွေ့သမျှသောပြယုဂ်ထူး,ပြယုဂ်ဆန်းတို့ကိုထုတ်နှုတ်၍ ပုရပိုက်, ပေ, ဘုတ်အုပ်(စာအုပ်)တို့၌ ကောင်းစွာစီစဉ်ရေးမှတ်ထုတ်ယူကာ သူ့ကဏ္ဍနှင့်သူ တစ်ကန့်စီခွဲဝေစီစဉ်ထားရှိတော်မူခဲ့၏။

မင်းတုန်းမင်းကြီးနတ်ပြည်စံသော သက္ကရာဇ် ၁၂၄၀–ပြည့်(အေဒီ–၁၈၇၈)ခုနှစ် ရဟန်း ၁၃–ဝါသို့ရောက်တော်မူချိန်တွင် အဋ္ဌကထာ ဋီကာနှင့်တကွ ပိဋကတ်သုံးပုံ နိကာယ်ငါးရပ်ကျမ်းဟူသမျှတို့ကို တစ်စမကျန်ကောင်းစွာကြည့်ရှုပြီးမြောက်၍ မောဂ္ဂလ္လာနဒီပနီကျမ်းရေးရန်အတွက် ပုဒ်စုလုပ်ငန်းကြီးသည်လည်း ပြီးစီးအောင်မြင်ခဲ့လေပြီ။ ထိုစဉ်အချိန်၌ စာဝါချပို့ရမှုတာဝန်များကြောင့် မောဂ္ဂလ္လာန်သဒ္ဒါအဖွင့်ကျမ်းကိုရေးသားရန် အချိန်အားလပ်ခွင့်မရခဲ့–ဟူသောစကားရပ်တို့ဖြင့် အောက်ပါအတိုင်းမှတ်တမ်းတင်ရေးသားထားတော်မူခဲ့ပါသည်။

> တသ္မာ မန္တလေးနဂရေ မဟာဇောတိကာရာမသာမိနော တိပိဋက မဟာထေရဿ ပါဒမူလေ ဝသန္တဿ သတ္တဝဿဝသိကကာလေ မမသက်ပွေါ သဉ္ဇာယတိ။ ‘ယန္နူနာဟံ မောဂ္ဂလ္လာနဒီပနိံနာမ ရစယေယျ’န္တိ၊ ဝဝံ သဥ္ဇာတ သက်ပွေါ သမာနော သာဋ္ဌကထံ ပိဋကတ္တယံ သမနုပဿန္တော ပဋ္ဌသုနိကာယေသု ဒိဋ္ဌဒိဋ္ဌာနိ ပယောဂပဒါနိ သမုဒ္ဒရိတွာ မဟာပေါတ္တကေ သမ္မာ လိခိတွာ ထပေမိ။

*၁ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ ၄၃၄–၄၄၀)။ ROB, IX. Page-900.

*၂ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၄၆၃)။ ROB, IX. Page-901.

တေရသဝဿိကကာလေ သာဋ္ဌကထာ, သဋီကာ, ပဥ္စနိကာယာသမနုဒိဋ္ဌာ အဟောသုံ။ တဒါ ပန ဘိက္ခူနံ့ ဓမ္မဝိနယံ ဝါစေန္တော ဩကာသံ နာလတ္ထံ။*၁

မြန်မာပြန်ကား–

(ထို့ကြောင့်) မန္တလေးမြို့ မဟာဇောတိကာရာမအမည်ရှိသော စံကျောင်းတိုက်ကြီး၏အရှင် သုံးပုံသောပိဋကတ်တို့၌ တတ်မြောက်သိမြင်တော်မူပြီးသော စံကျောင်းဆရာတော်ဘုရားကြီး၏ခြေတော်ရင်း၌ ပိဋကတ်သုံးဖြာကို ကောင်းစွာသင်ကြား၍နေစဉ် ရဟန်းခုနစ်ဝါ, ရှစ်ဝါရလောက်ကပင် ဤနိရုတ္တိဒီပနီကျမ်းကို ရေးသားတော်မူသောမထေရ်မြတ်အား 'ငါသည် မောဂ္ဂလ္လာန်ဗျာကရဏ်းကျမ်း၏ဖွင့် (မောဂ္ဂလ္လာနဒီပနီ)ကိုရေးသားအံ့'ဟူ၍ အကြံဖြစ်တော်မူ၏။ ဤသို့ အကြံဖြစ်တော်မူ လတ်ရကား အဋ္ဌကထာနှင့်တကွသော ပိဋကတ်သုံးပုံကို ရှုကြည့်တော်မူဆဲအခါ၌ နိကာယ်ငါးရပ်တို့မှ တွေ့တွေ့သမျှသော ပြယုဂ်ထူးပြယုဂ်ဆန်းတို့ကို ထုတ်နုတ်၍ ပေပုရပိုက်ဘုတ်အုပ်တို့၌ ကောင်းစွာစီစဉ်ရေးမှတ်၍ ထုတ်ယူထားတော်မူ၏။ ၁၃–ဝါရမြောက်တော်မူသောအခါ၌ အဋ္ဌကထာဋီကာနှင့်တကွသော နိကာယ်ငါးဖြာတို့ကို ကောင်းစွာ ကြည့်ရှု၍ ပြီးမြောက်ပေါက်ရောက်တော်မူ၏။ ထိုအခါ၌မူ ရဟန်းသံဃာအပေါင်းတို့အား သုတ်,အဘိဓမ္မာ,ဝိနည်း–ဟုဆိုအပ်သော ပိဋကတ်တော်တို့ကို ချပို့တော်မူရသည်ဖြစ်၍ မောဂ္ဂလ္လာန်ဗျာကရဏ်းကျမ်းကို ဖွင့်ပြရေးသားရန်အခွင့် မရရှိခဲ့–ဟူ၍ဖြစ်ပါသည်။*၂

## တောင်ဆောင်တော်မိဖုရားရေစက်ချပွဲ

'မင်းတုန်းမင်းကြီးနတ်ပြည်မစံမီ မြောက်ဥယျာဉ်တော်၌ မင်းသားမင်းသမီး သားတော်မြေးတော်များ မယ်တော်ကြီးများစုဝေးကာ နှုတ်ခွန်းဆက်သနေခိုက် လက်သုံးတော်များက ဖမ်းဆီးကြပြီး ထိုမြောက်ဥယျာဉ်တော်မှာပင် အကျဉ်းချထားခဲ့သည်'ဟူသောသတင်းသည် အမှန်ပင်ဖြစ်ခဲ့သော်လည်း မြို့ရွာအတွင်း၌မူ ဤသတင်းမှန်,မမှန်ကို မည်သူမျှကေန်မပြောနိုင်ခဲ့ကြပေ။ အချို့က 'မင်းသားမင်းသွေးတို့ကိုဖမ်းဆီးထားရုံမျှမက သတ်ပင်သတ်လိုက်ပြီ'-ဟူ၍လည်းပြောဆိုခဲ့ကြ၏။

သက္ကရာဇ် ၁၂၄ဝ–ပြည့်နှစ်၊ နတ်တော်လဆန်း ၆–ရက် (အေဒီ–၂၉၊ နိုဝင်ဘာလ၊ ၁၈၇၈)တွင် စံကျောင်းတိုက်ကြီး၏ အရှေ့တောင်ထောင့်၌ မဟာရံတံတိုင်းသုံးထပ်ရှိသည်တွင် အလယ်မဟာရံတံတိုင်းအတွင်း၌တည်ထားခဲ့သော ပထမစံကျောင်းဆရာတော်ကြီးအရှင်စန္ဒိမာ၏အရိုးအိုးစေတီကို တောင်ဆောင်တော်မိဖုရားက တစ်ဖန်ပြုပြင်ပြီး အုတ်ရိုးပြာသာဒ်ဆောက်လုပ်၍ ရေစက်ချပွဲ

*၁ လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီပါဠိ။ ၁၂၆၇–ခုနှစ်။ (စာမျက်နှာ–၅)။

*၂ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ မြန်မာပြန်ဖြစ်သည်။ လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီပါဠိ။ ၁၂၆၇–ခုနှစ်၊ (စာမျက်နှာ–၇၊ ၈)။

ပြုလုပ်၏။ ထိုရေစက်ချပွဲသို့ တောင်ဆောင်တော်မိဖုရားကြီး(အေဒီ ?–၁၈၉၂)က မိမိ၏သမီးတော် မိုးညှင်းမြို့စားမင်းသမီးကိုပါတက်စေလိုသဖြင့် မိုးညှင်းမြို့စားမင်းသမီးကို ရေစက်ချပွဲသို့ ခေတ္တလာရောက်ခွင့်ပြုရန် နန်းတော်ကြီးသို့ အသနားခံခွင့်ပန်ကြားခဲ့၏။ ခွင့်ပြုချက်ရသော် မိုးညှင်းမြို့စားမင်းသမီးသည် နန်းတွင်းအချုပ်မှအစောင့်အရှောက်များနှင့်အတူ စံကျောင်းတိုက်သို့ထွက်လာကာ မယ်တော်တောင်ဆောင်တော်မိဖုရားကြီးနှင့်အတူ ရေစက်ချခွင့်ရခဲ့လေ၏။*၁

မိုးညှင်းမြို့စားမင်းသမီး၏ဖြစ်အင်ကိုမြင်ကြရသောအခါမှ အရှင်ဉာဏအပါအဝင် စံကျောင်းတိုက်သားအပေါင်းတို့က 'မင်းညီမင်းသားတွေ ဖမ်းတယ်ဆီးတယ်ဆိုတာ ဟုတ်ကယ်ပါကလား'ဟု မျက်မြင်ဒိဋ္ဌကိုယ်တိုင်ကြုံကြကာ မယုံကြည်၍မဖြစ်ကြတော့ပေ။

## စုဒ္ဒသမဝါဆိုတော်မူခြင်း

သက္ကရာဇ် ၁၂၄၁–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၇၉–ခုနှစ်၊ ဇူလိုင်လ)တွင် အရှင်ဉာဏသည် (၁၄)ကြိမ်မြောက် စုဒ္ဒသမဝါကို မန္တလေးမြို့မြောက်ပြင်စံကျောင်းတိုက်ကြီးမှာ ဝါကပ်ဆိုတော်မူပါသည်။

ထိုနှစ်ဝါဆိုလအတွင်း အရှင်ဉာဏသည် စံကျောင်းတိုက်သံဃာအပေါင်းတို့၏အားကိုးမှီခိုရာ သံဃာ့ဖခင်ကြီးဖြစ်တော်မူသော စံကျောင်းဆရာတော်ဘုရားဦးသုဒဿန၏ သမ္မာသမ္ဗောဓိ၊ ပစ္စေကဗောဓိ၊ သာဝကဗောဓိဆုနှင့်စပ်၍ဖြည့်ဆည်းရသော ပါရမီကျင့်စဉ်ဆိုင်ရာ အမေးပုစ္ဆာနှစ်ဆယ်ခေါ် ဝီသတိပုစ္ဆာတို့၏အနက်မြန်မာနိဿယကို ရေးဦးပြန်ဆိုခဲ့ပြီးနောက်၊ ထိုပုစ္ဆာနှစ်ဆယ်တို့၏အဖြေကိုလည်း ရေးသားဖြေဆိုတော်မူခဲ့ပါသည်။

## ဝီသတိပုစ္ဆာဝိသဇ္ဇနာကျမ်း*၂ (ပါရမီဒီပနီ)

ဝီသတိပုစ္ဆာနှစ်ဆယ်တို့သည် သက္ကရာဇ် ၁၂၃၄ (အေဒီ–၁၈၇၂)ခုနှစ်ကပင် စံကျောင်းဆရာတော်ကြီးစီရင်ရေးသားခဲ့သော ပုစ္ဆာများဖြစ်သည်။

ဤပုစ္ဆာတို့ဖြစ်ပေါ်လာပုံမှာ သက္ကရာဇ် ၁၂၃၄–ခုနှစ်၊ ဒုတိယဝါဆိုလပြည့်ကျော် ၃–ရက် (အေဒီ–၂၃၊ ဇူလိုင်လ၊ ၁၈၇၂)က မင်းတုန်းမင်းကြီးသည် ဆင်တဲရွာစားနေမျိုးရာဇသင်္ကြံကို စံကျောင်းဆရာတော်ကြီးထံစေလွှတ်ပြီး အောက်ပါအချက်တို့ကိုဖြေရှင်းပေးပါရန် လျှောက်ထားလွှာဆက်ကပ်စေပါသည်။ ထိုစာတွင် 'အရှင်သာရိပုတ္တရာအလောင်းတော်သည် အနောမဒဿီမြတ်စွာဘုရားလက်ထက် လက်ယာရံအဂ္ဂသာဝကဆုကိုမတောင်းမီ သမ္မာသမ္ဗောဓိဆုကို

*၁ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၅၀၀)။

*၂ ဝီသတိပုစ္ဆာဝိသဇ္ဇနာကျမ်းသည် ယခုအခါ ပါရမီဒီပနီဟုခေါ်ဝေါ်နေကြသောကျမ်းဖြစ်ပါသည်။ လယ်တီဆရာတော်ကြီးက ထိုကျမ်းကို ဝီသတိပုစ္ဆာဝိသဇ္ဇနာ–ဟူသာ နိဂုံး၌ အမည်ပေးထားပါသည်။ လယ်ငါးဆရာတော်၏ ပါရမီဒီပနီ။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၂၁၃)။ ပါရမီဒီပနီဟူသောအမည်ကား နောင်အခါမှပေးသောအမည်ဖြစ်ပါသည်။

တောင်းရင်းရှိသောအကြောင်းကိုပြောဆိုသောစကားအစဉ်သည် ပါဠိ,အဋ္ဌကထာတို့၌ လာ,မလာ ကို အသေအချာစာဆက်သွင်းပါမည့်အကြောင်း ရေးသားလျှောက်ထားပါသည်'ဟုဖြစ်သည်။

မင်းတုန်းမင်းကြီးမေးလာသော အမေးမှာ အရှင်သာရိပုတ္တရာမထေရ်သည် ရှေးဦးမသွက သမ္မာသမ္ဗောဓိဘုရားဆုကိုပန်ခဲ့ပြီးမှ အနောမဒဿီဘုရားရှင်လက်ထက်တွင် ထိုသမ္မာသမ္ဗောဓိ ဘုရားဆုကိုရုပ်သိမ်းပြီး၊ တစ်ဖန် အဂ္ဂသာဝကဆုကိုပန်ခဲ့ခြင်းကြောင့် အကြင်ပုဂ္ဂိုလ်တစ်ဦး၌ တစ်ခုသောဆုမှ တစ်ခုသောဆုသို့ပြောင်း၍ဆုတောင်းလျှင် ရ,မရဟူ၍ဖြစ်လေသည်။ ထိုအမေးကို စံကျောင်းဆရာတော်ကြီးက အောက်ပါအတိုင်းဖြေတော်မူလိုက်ပါသည်။

'အရှင်သာရိပုတ္တရာအလောင်းသည် အနောမဒဿီဘုရားလက်ထက် နိသဘမထေရ်ကိုမြင်၍ လက်ျာရံအဂ္ဂသာဝကဆုကိုတောင်းယူသည်မှ ရှေးအဘို့ကာလ၌ တောင်းယူဖြည့်ဆည်းပူးအပ်သော သမ္မာသမ္ဗောဓိဆုရှိသောအကြောင်းကို ပြောဆိုကြသောစကားအစဉ်သည် ပါဠိ, အဋ္ဌကထာ,ဋီကာတို့၌ အရိပ်အမြွက်မျှ မထင်မမြင်စဘူး။

အင်္ဂုတ္တရအဋ္ဌကထာ၊ ဓမ္မပဒအဋ္ဌကထာစသည်တို့၌ အနောမဒဿီမြတ်စွာ ဘုရား၏လက်ယာရံ နိသဘမထေရ်ကဲ့သို့ လက်ယာရံဖြစ်လိုသောစိတ်အကြံအစည် ကြောင့် အနောမဒဿီမြတ်စွာဘုရား၏တရားတော်ကိုနာရာ၌ မဂ်ဖိုလ်ကိုရသင့်လျက် မဂ်ဖိုလ်မရကြောင်းကိုသာလာသည်၊ သမ္မာသမ္ဗောဓိဆုကိုတောင်းယူရင်း ရှိသော အကြောင်းမလာ။

ငါတို့မြတ်စွာဘုရားအလောင်းသုမေဓာရှင်ရသေ့သည်လည်း ဒီပင်္ကရာမြတ်စွာ ဘုရားခြေတော်ရင်း၌ သာဝကအဖြစ်ဖြင့် နိဗ္ဗာန်ယူတော်မူလျှင် ရသင့်လျက် အသင်္ချေနှင့်ကမ္ဘာတစ်သိန်းပါရမီကိုဖြည့်၍ သမ္မာသမ္ဗောဓိဆုကို ယူတော်မူသည်။

အဇာတသတ်မင်းသည်လည်း အဆွေခင်ပွန်းယုတ် ဒေဝဒတ်နှင့်ပေါင်းဖော်မိ ခြင်းကြောင့် သာမညဖလသုတ်ကိုနာရသည့်အဆုံး၌ မဂ်ဖိုလ်ကိုရသင့်လျက် မဂ်ဖိုလ် ကိုမရသည်နှင့် အသင်္ချေနှစ်အသင်္ချေနှင့်ကမ္ဘာတစ်သိန်းပါရမီကိုဖြည့်၍ ပစ္စေက ဗောဓိဆုကိုပြီးစေလိမ့်မည်ဟု သုတ်သီလက္ခန်စသည်တို့၌လာသည်။

ထို့ကြောင့် ပကတိသာဝကဆုမှပြောင်း၍ ပစ္စေကဗောဓိဆုကိုယူသော အဇာတသတ်မင်း(ပ)ပကတိသာဝကဆုမှပြောင်း၍ လက်ျာရံအဂ္ဂသာဝကဆုကို ယူသော ရှင်သာရိပုတ္တရာအလောင်း သရဒရသေ့တို့ကိုထောက်လျှင် တစ်ခုသော သာဝကဗောဓိဆုမှ တစ်ပါးသောသာဝကဗောဓိဆု၊ ပစ္စေကဗောဓိဆု၊ သမ္မာသမ္ဗောဓိ ဆုတို့ကို အသင့်အသီးဖြည့်အပ်သောပါရမီအားလျော်စွာ ပြည့်စုံရသောသူတို့လည်း ရှိရာသည်။ နိယတဗျာဒိတ်ရပြီးသောအလောင်းအလျာဖြစ်မှုကား ပြောင်းရွှေ့ရသော

အကြောင်းမရှိ။ နိယတဗျာဒိတ်အားလျော်စွာသာပြည့်စုံရာသည် ကေရာဇ်မင်းမြတ်' ဟူ၍ဖြစ်ပါသည်။*၁

စံကျောင်းဆရာတော်ဘုရားကြီးသည် မင်းတုန်းမင်း၏အမေးပုစ္ဆာကိုအခြေခံ၍ အခြားကြွင်းသောသာဝကဗောဓိ, သမ္မာသမ္ဗောဓိဆုတို့နှင့်စပ်ပြီး ဆပွားအတွေးများဝင်တော်မူပါသဖြင့် ဤဝိသတိပုစ္ဆာခေါ် အမေးပုစ္ဆာနှစ်ဆယ်ကို စီစဉ်ရေးသားတော်မူခြင်းပင်ဖြစ်သည်။

ဝိသတိပုစ္ဆာတို့ကိုရေးပြီးသောအခါ မိမိ၏တပည့်ကြီးများကိုဖြေဆိုကြရန် ဖြန့်ဝေပေးတော်မူ၏။ တပည့်ကြီးများက ဤပုစ္ဆာတို့သည် ဆရာတော်ကြီး မသိ၍မေးခြင်းမဟုတ်၊ အလုံးစုံသိပြီးမှ တမင်ပုစ္ဆာထုတ်ဆင်ခြင်းသာဖြစ်၍ မဖြေဝံ့ကြသည့်အလျောက် မသိကျိုးကျွန်ပြုနေကြ၏။ ဤသို့ တပည့်ကြီးများ မသိကျိုးကျွန်ပြုကာ အမှတ်မဲ့ထားခဲ့သောပုစ္ဆာနှစ်ဆယ်တို့ကို ဉာဏ်မီးတောက်စ အရှင်ဉာဏသည် စလင်းဦးပဏ္ဍိစ္စထံမှရရှိပြီး မိမိဘာသာကြိတ်၍ဖြေဆိုနေခဲ့ခြင်းဖြစ်ပါသည်။

စံကျောင်းဆရာတော်ဘုရားကြီးက မိမိ၏ပါရမီအမေးပုစ္ဆာနှစ်ဆယ်တို့ကို မန္တလေးရွှေမြို့တော်ကြီးလေးပြင်လေးရပ်၌သီတင်းသုံးတော်မူသော ရဟန်းပညာရှိ လူပညာရှိတို့သာ ဖြေဆိုရန် ရည်ရွယ်တော်မူခဲ့သည်။ ဤအမေးပုစ္ဆာနှစ်ဆယ်တို့သည် အုတ်ကြားမြက်ပေါက် လူကြွားလူဝါတို့ အရာမဟုတ်၊ ပညာရှိဆိုရာ၌လည်း တော်တော်တန်တန်ပညာရှိမျိုးတို့၏ အရာမဟုတ်၊ ပါဠိအဋ္ဌကထာ ဋီကာကျမ်းဂန်အရပ်ရပ်တို့ကို နှံ့စပ်ကုန်စင်အောင်တတ်မြောက်ပြီး အလွန်အကဲပညာရှိသောပုဂ္ဂိုလ်မျိုးတို့၏အရာဌာနသာဖြစ်သည်။ ထိုသို့သောပုဂ္ဂိုလ်မျိုးတို့သည်သာလျှင် ဤဝိသတိပုစ္ဆာတို့ကိုဖြေဆိုကြပါကုန်ဟု စံကျောင်းဆရာတော်ကြီးက ပုစ္ဆာနိဂုံး၌တိုက်တွန်းရေးသားထားတော်မူခဲ့၏။*၂

**ပထမဆုံးကျမ်းဖြစ်ခြင်း**

အထက်ဖော်ပြခဲ့သော စံကျောင်းဆရာတော်ကြီး၏ ဝိသတိပုစ္ဆာတို့၏ဝိသဇ္ဇနာအဖြေလွှာကျမ်းသည် လယ်တီဆရာတော်ကြီးလောင်းလျာ အရှင်ဉာဏ၏ပထမဦးဆုံးကျမ်းစာဖြစ်၏။ ထိုဝိသဇ္ဇနာအဖြေလွှာရေးချိန်၌ အရှင်ဉာဏသည် မောဂ္ဂလ္လာနဒီပနီရေးရန် အတွက်ရည်ရွယ်ပြီး ပိဋကတ်သုံးပုံအဋ္ဌကထာဋီကာအစုံတို့ကိုကြည့်ရှုပြီးခါစ စာပေပရိယတ်ဖတ်ရှုမှု အကြားအမြင်ရှိသည် သာမက လူပညာရှိ ရဟန်းပညာရှိတို့ထံ အန္တံ့အတာခံလျက် ဆည်းပူးထားသော သုတ,မုတ ပြည့်စုံနေသောအချိန်လည်းဖြစ်သောကြောင့် ပါရမီဖြည့်ဆည်းဖူးခြင်းနှင့် သက်ဆိုင်သမျှကျမ်းစာ တို့ကို ဆွဲငင်ကြည့်ရှုသုံးသပ်ကာ ဤအဖြေလွှာကို ကျကျနနရေးသားထားတော်မူခြင်းဖြစ်ရာ၊ အရှင်ဉာဏ၏ထိုဝိသတိပုစ္ဆာဝိသဇ္ဇနာအဖြေလွှာတို့ကို ဖတ်ရှုရသူတိုင်းကပင် အရှင်ဉာဏ၏ တည်ကြည်ရင့်ကျက်သောဉာဏ်ပါရမီကို မချီးကျူးဘဲ မနေနိုင်ခဲ့ကြပေ။

---

*၁ မင်းတုန်းမင်း၏အမေး– စံကျောင်းဆရာတော်အဖြေ။ သုရိယမဂ္ဂဇင်း၊ ၁၉၂၆–ခုနှစ်၊ ဇူလိုင်လ။

*၂ လယ်တီဆရာတော်ကြီး၏ ပါရမီဒီပနီ။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၂၁၀)။

ထိုဝိသတိပုစ္ဆာဝိဿဇ္ဇနာ၌အရှင်ဉာဏကိုးကားဖော်ပြထားသောကျမ်းများမှာ ပိဋကတ်သုံးပုံ ပါဠိတော်,အဋ္ဌကထာ,ဋီကာ,ဂဏ္ဌိကျမ်းများသာမက ထိုခေတ်ကမဆိုထားဘိ ယခုတိုင်ရှာဖွေရန် ခက်ခဲလျက်ရှိသော ရှားပါးစာပေများဖြစ်သည့် အနာဂတဝင်အဋ္ဌကထာ၊[*၁] သောတတ္ထကီ၊[*၂] ဇာတတ္ထကီ၊[*၃] ယွန်းပဏ္ဏာသ၊[*၄] တထာဂတုပ္ပတ္တိ၊[*၅] မဟာန္တဂုဏာ၊[*၆] ဇိနာလင်္ကာရ၊[*၇] ဝဇိရတ္ထ

*၁ ဤအဋ္ဌကထာသည် အရိမေတ္တေယျဗုဒ္ဓဝင်ကိုဖွင့်သောအဋ္ဌကထာဖြစ်ပြီး၊ အေဒီ ၅–ရာစု ဓာတုသေနမင်းလက်ထက် သီဟိုဠ်ကျွန်း အနုရာဓမြို့ ကာဠဝါသီကျောင်းနေ အရှင်မဟာဥပတိဿပြုစုသည်။ အေဒီ ၂၀၀၀–ပြည့်နှစ်သို့ရောက်မှ ဤအဋ္ဌကထာသည် ပေမူမှ ပုံနှိပ်မူသို့ရောက်ရှိသည်။ ဦးကျော်လှိုင်၏ အရိမေတ္တေယျဗုဒ္ဓဝင်စာစုများ။ ၁၃၆၂–ခုနှစ်။

*၂ ဤကျမ်းကို သောတတ္ထကီမဟာနိဒါန–ဟုလည်းခေါ်သည်။ တဏှင်္ကရ၊ မေဓင်္ကရနှင့် သရဏင်္ကရဘုရားရှင်တို့၏မှစ၍ ဂေါတမဘုရားရှင်အထိ ဖော်ပြထားသော ဗုဒ္ဓဝင်ကျမ်းပင်ဖြစ်သည်။ ဤဗုဒ္ဓဝင်ကို အဋ္ဌကထာကျမ်းပြုဆရာကြီး အရှင်မဟာဗုဒ္ဓဃောသနှင့် သီဟိုဠ်ကျွန်း အနုရာဓမြို့ မဟာဝိဟာရဝါသီကျောင်း၌သီတင်းသုံးဖော် စူဠဗုဒ္ဓဃောသမထေရ် ပြုစုသည်။ ဤကျမ်းသည် အေဒီ ၁၉၂၈–ခုနှစ်တွင်မှ ပေမူမှ ပုံနှိပ်မူသို့ရောက်သည်။ ထိုသောတတ္ထကီပါဌ်၏နိဿယကို ဦးအာလောက(ဆရာကြီးဦးအုန်းရွှေ)ပြန်ဆိုခဲ့သည်။ ဦးအာလောက၏ သောတတ္ထကီပါဌ်,နိဿယ။ သုဓမ္မဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၂၈–ခုနှစ်။

*၃ ဤကျမ်းသည် ဇာတ်အဋ္ဌကထာ၏နိဒါနကထာပင်ဖြစ်သည်။ ထိုဇာတတ္ထကီခေါ် ဇာတ်အဋ္ဌကထာနိဒါန်းကို အရှင်မဟာဗုဒ္ဓဃောသ ရေးစီရင်ပြီး၊ မြန်မာနိဿယကို အမရပူရမြို့ ပိဋကနာထဆရာတော်အရှင်အဂ္ဂါစာရပြုသည်။ ဤပါဌ်နိဿယကျမ်း ပုံနှိပ်မူအဖြစ်သို့ ၁၉၂၇–ခုနှစ်တွင်ရောက်ရှိသည်။ ဇာတတ္ထကီပါဌ်နိဿယ။ သုဓမ္မဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၂၇–ခုနှစ်။

*၄ ယွန်းပဏ္ဏာသ–ဟူသည်မှာ အေဒီ ၁၅–ရာစုတွင် ယွန်းဒေသခေါ် ထိုင်းနိုင်ငံမြောက်ပိုင်း ဇင်းမယ်မြို့က ပညာရှင်တို့ ရေးသော ဝတ္ထုငါးဆယ်ကိုဆိုလိုသည်။ [ပဏ္ဏာသ(ပါဠိ)=ငါးဆယ်]။ ဇင်းမယ်ပဏ္ဏာသ၊ ပဏ္ဏာသဇာတက–စသည်ဖြင့်လည်းခေါ်ကြသည်။ ဤကျမ်းသည် ပေမူမှ မြန်မာအက္ခရာပုံနှိပ်မူအဖြစ်သို့ ၁၉၁၁–ခုနှစ်တွင်ရောက်ရှိသည်။ ဇင်းမယ်ပဏ္ဏာသ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၁၁–ခုနှစ်။ ၁၉၇၈–ခုနှစ်တွင် ရောမအက္ခရာဖြင့်ဖလှယ်၍ လန်ဒန်မြို့ ပါဠိကျမ်းစာအသင်း (Pali Text Society, London) ၁၉၈၁–ခုနှစ်တွင် အတွဲနှစ်တွဲခွဲ၍ ပုံနှိပ်ခဲ့ပါသည်။ Padmanabh S.Jaini' Paññāsa-Jātaka. PTS, London. Vol.I (1981), Vol.II (1983).

*၅ တထာဂတုပ္ပတ္တိကျမ်းသည် ဂေါတမဘုရားရှင်၏ ဗုဒ္ဓဝင်ကျမ်းပင်ဖြစ်သည်။ မူရင်းပါဠိဘာသာကို ပုဂံခေတ် အရှင်ဉာဏဂမ္ဘီရ ရေး၍၊ မြန်မာဘာသာသို့ ပိဋကတ်တော်မ ဓမ္မနန္ဒထေရ်ပြန်ဆိုကြောင်းသိရသည်။ ထိုကျမ်းစာသည် ပေမူဖြင့်သာရှိပြီး ပုံနှိပ်မူသို့မရောက်သေးပေ။ တထာဂတုပ္ပတ္တိပါဌ် (တက္ကသိုလ်များဗဟိုစာကြည့်တိုက်။ တဗစ–၆၆၂၃)နှင့် ယင်းနိဿယ (တက္ကသိုလ်များဗဟိုစာကြည့်တိုက်။ တဗစ–၁၁၆၆၀) ဖြစ်သည်။

*၆ မဟာန္တဂုဏာကျမ်းအကြောင်းကို မသိရပါ။ ပုဂံခေတ်ကပေါ်ထွန်းခဲ့သော ကမ္မဋ္ဌာန်းကျမ်းများတွင် မဟာန္တကမ္မဋ္ဌာန်း–ဟူသော ကျမ်းတစ်စောင်ရှိခဲ့ကြောင်းကိုသိရသည်။ ထိုမဟာန္တကမ္မဋ္ဌာန်းနှင့် မဟာန္တဂုဏာကျမ်း တူ,မတူကို အတိအကျမသိရပါ။ ထူးကြီး ဆရာတော်၏ မာလုကျပုတ္တသုတ္တန်ပါဠိတော်ဟောစဉ်။ နေလင်းပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ–၃)။

*၇ ဇိနာလင်္ကာရကျမ်းသည်လည်း ဗုဒ္ဓဝင်နှင့် ဗုဒ္ဓထောမနာဂါထာကျမ်းဖြစ်သည်။ သီဟိုဠ်ကျွန်းနေ အရှင်ဗုဒ္ဓရက္ခိတမထေရ်သည် စာကိုယ်ပါဌ်ကိုသာမက ယင်းပါဌ်၏အဖွင့်ဋီကာကိုပါ ပြုစုခဲ့သည်။ ဇိနာလင်္ကာရစာကိုယ်ပါဌ်သည် ရောမအက္ခရာမူ၊ အင်္ဂလိပ်ဘာသာနှင့်တကွ ပုံနှိပ်မူသို့ရောက်ခဲ့ပြီဖြစ်သည်။ James Gray' Jinālaṅkāra. Luzac & Co., London. 1894. ဇိနာလင်္ကာရစာကိုယ်နှင့် ဋီကာပါဌ်သည် ၁၃၀၂–ခုနှစ် (အေဒီ–၁၉၄၀)တွင် မြန်မာအက္ခရာဖြင့်ပုံနှိပ်မူသို့ရောက်သည်။ အရှင်ဗုဒ္ဓရက္ခိတ၏ ဇိနာလင်္ကာရစာကိုယ်ပါဌ်နှင့် ဇိနာလင်္ကာရဋီကာပါဌ်။ သုဓမ္မဝတီစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၀၂–ခုနှစ်။ ဇိနာလင်္ကာရစာကိုယ်ပါဌ်ကို အေဒီ ၁၇၇၆–ခုနှစ်က သာသနာပိုင်ဘုံထားဆရာတော်အရှင်နန္ဒမာလာ မြန်မာနိဿယပြန်ခဲ့ပြီးဖြစ်သော်လည်း အေဒီ ၂၀၀၅–ခုနှစ်တွင် ပုံနှိပ်မူသို့ရောက်သည်။ အရှင်နန္ဒမာလာ၏ ဇိနာလင်္ကာရ နိဿယ။ ခင်ချိုထွန်းစာပေ၊ ရန်ကုန်မြို့။ ၂၀၀၅–ခုနှစ်။

သင်္ဂဟ၊[*၁] သဟဿဝတ္ထု၊[*၂] သီရိမဟာမာယာဝတ္ထု[*၃] စသောကျမ်းစာများပါဝင်သည်။ ထိုကျမ်းတို့ကို စာပေအလွန်ဝါသနာထုံသူတို့သာလေ့လာကြည့်ရှုသောကျမ်းစာမျိုးဖြစ်၍ စာသင်တိုက်ကြီး၌ ထားရှိမည်မဟုတ်ပေ။ ထိုကျမ်းစာတို့ကို အရှင်ဉာဏသည် ပိဋကတ်တော်အုပ်မင်းကြီး ဦးယမ်ထံမှ ငှားရမ်းကူးယူလေ့လာခဲ့ပုံရ၏။ အကြောင်းမှာ ဦးယမ်၏ပိဋကတ်သမိုင်းစာတမ်းကျမ်းစာရင်း၌ ဇိနာလင်္ကာရ(စဉ်–၂၃၅)။ သဟဿဝတ္ထု(စဉ်–၃၄၁)။ မဟာမာယာဝတ္ထု(စဉ်–၃၄၃)။ သောတတ္ထကီ(စဉ်–၃၄၆)။ တထာဂတုပ္ပတ္တိ(စဉ်–၃၄၇)။ ဝဇိရတ္ထသင်္ဂဟ(စဉ်–၃၅၀)။ ယွန်းပဏ္ဏာသ(စဉ်–၃၆၉)။ နိရုတ္တိသာရမဥ္ဇူသာ(စဉ်–၃၇၆)စသည်ဖြင့်တွေ့ရသောကြောင့်ဖြစ်၏။ သီရိမဟာမာယာဝတ္ထုကိုမူ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးလောင်းလျာ အရှင်ဝိသုဒ္ဓက ၁၂၂၆–ခုနှစ်က နိဿယပြန်ဖူး၍ လယ်တီဆရာတော်ကြီးလောင်းလျာအရှင်ဉာဏသည် မဟာဝိသုဒ္ဓါရုံလောင်းလျာထံမှ ခေတ္တယူ၍ကြည့်ခြင်းလည်းဖြစ်နိုင်သည်။

အထက်ပါဝီသတိပုစ္ဆာဝိသဇ္ဇနာကျမ်းပြုစုပြီးသည့်အခါ အရှင်ဉာဏသည် မိမိ၏ဆရာ စလင်းဦးပဏ္ဍိစ္စကို ဦးစွာပြသ၏။ စလင်းဆရာတော်သည် လွန်စွာအားရကျေနပ်ပြီး 'စာတွေသည်လောက်တတ်လာအောင် ဘယ်အချိန်တုန်းကများ သင်ထား ကြည့်ထားသလဲ' ဟုပင် မိန့်ကြားတော်မူခဲ့သည်။ စလင်းဆရာတော်က ဤကျမ်းစာကို သေသပ်စွာ ပေထက်အချောရေးကူးစေပြီး ပုစ္ဆာရှင်ဖြစ်တော်မူသော စံကျောင်းဆရာတော်ဘုရားကြီးထံသို့ဆက်ကပ်ရန် မိန့်ကြားတော်မူပါသည်။

အရှင်ဉာဏသည် စလင်းဆရာတော်ဘုရားကြီးအမိန့်ရှိတော်မူသည့်အတိုင်း ပေထက်တင်ရွှေမျဉ်းသတ်ကာ စံကျောင်းဆရာတော်ဘုရားကြီးထံတော်သို့ဆက်ကပ်တော်မူခဲ့ပါသည်။ စံကျောင်းဆရာတော်ကြီးက ဤပုစ္ဆာ(၂၀)ကို လေးပြင်လေးရပ်မှစာချဘုန်းတော်ကြီးများဖြစ်စေ၊ အကယ်၍

---

[*၁] ဝဇိရတ္ထသင်္ဂဟကျမ်းကို အဖွင့်ဋီကာနှင့်တကွ ရှမ်းသိုဟန်ဘွားမင်းလက်ထက် အင်းဝမြို့အနောက် ဇေတဝန်ကျောင်းတိုက်နေ အရှင်သီရိရတနပညာ ပြုသည်ဟု ပိဋကတ်တော်သမိုင်း(အပိုဒ်–၃၅၁၊ ၃၅၂)၌ ဖော်ပြထားပါသည်။

[*၂] သဟဿဝတ္ထုကျမ်းကို သဟဿဝတ္ထုပကရဏ–ဟုလည်းခေါ်သည်။ အိန္ဒိယနှင့် သီဟိုဠ်ဒေသများ၌ ဖြစ်ပေါ်ခဲ့သော ရှေးဟောင်းပုံဝတ္ထုများဖြစ်သည်။ အချို့က 'သဟဿ + ဝတ္ထု' ဟု ပုဒ်ခွဲကာ 'ဝတ္ထုအပုဒ်(၁၀၀၀)' ပ, ဘာသာပြန်နိုင်သော်လည်း၊ သီရိလင်္ကာဆရာတော် ဘိက္ခု အေ ပီ ဗုဒ္ဓဒတ္တကမူ 'သ + ဟဿ' ဟု ပုဒ်ခွဲ၍ 'ရွှင်မြူးဖွယ်၊ နှစ်သက်ဖွယ်' ဟု အဓိပ္ပာယ်ယူကာ ရွှင်မြူးဖွယ်ကောင်းသောပုံဝတ္ထုများဖြစ်ကြောင်း တင်ပြခဲ့သည်။ သီဟိုဠ်မူ သဟဿဝတ္ထုတွင် အခန်း(၇)ခန်းပါရှိပြီး၊ ဝတ္ထုအပုဒ်ပေါင်းမှာ (၉၅)ပုဒ်ပါရှိလေသည်။

[*၃] သီရိမဟာမာယာဝတ္ထုပါဠိကို သီဟိုဠ်ကျွန်း အနုရာဓမြို့ မဟာဝိဟာရကျောင်းနေ အမည်မသိထေရ်ပြုသည်ဟု ပိဋကတ်တော်သမိုင်း (အပိုဒ်–၃၄၃)၌ပြဆိုထားသည်။ သီရိမဟာမာယာဝတ္ထုပါဠိနိသျှရှိကြောင်းကို ယင်းကျမ်း(အပိုဒ်–၈၇၄)အရ သိရသည်။ ကျမ်းပြုသူနှင့်ကျမ်းပြုခေတ်ကို ဖော်ပြမထားပေ။ သီရိမဟာမာယာဝတ္ထုနိဿယကို မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၂၆(အေဒီ–၁၈၆၄)ခုနှစ် ရဟန်းဝါနုစဉ်ကရေးသား၍ လယ်တီတရားသတင်းစာတွင် အခန်းဆက်ဖော်ပြပဲ့ဖူးပါသည်။ လယ်တီတရားသတင်းစာ၊ အတွဲ–၁၊ နံပါတ်–၁၂။ ၁၂၈၉–ခုနှစ်၊ နယုန်လ။ (စာမျက်နှာ–၁၈)။ သီရိမဟာမာယာဝတ္ထု နိဿယအပြည့်အစုံ ၂၀၀၅–ခုနှစ်တွင် ရွှေသုဝဏ်ဆရာတော်ကြီး အရှင်သဒ္ဒိယ၏ကြိုးပမ်းမှုကြောင့် ပုံနှိပ်မှုသို့ ရောက်ရှိခဲ့ပါသည်။

တိုက်တွင်းကဖြစ်မှုကား အလုံဇာတိ စာချဘုန်းကြီးအရှင်ပဏ္ဍိတ၊ စလင်းဇာတိ ဦးဣန္ဒာစ္စဖြစ်စေ အခြားသောစာချဘုန်းကြီးများဖြစ်စေ ဖြေကြားကြလိမ့်မည်ဟု မျှော်လင့်ထားတော်မူခဲ့သော် လည်း ယခု စာချဘုန်းကြီးကလေးအရှင်ဉာဏ၏အဖြေလွှာကို မထင်မှတ်ဘဲတွေ့တော်မူရသော် အံ့အားသင့်တော်မူခဲ့၏။ သည်ဦးပဉ္စင်းကလေး သည်မျှလောက်နှံ့စပ်တတ်မြောက်လိမ့်မည် မဟုတ်ဟု ထင်ထားတော်မူသောကြောင့်လည်းဖြစ်၏။ *၁

အရှင်ဉာဏသည်ကား အထက်ဖော်ပြပါ ဝိသတိပုစ္ဆာတို့ကိုဖြေဆိုတော်မူစဉ်အခါကာလ သည် သက္ကရာဇ် ၁၂၁၄ (အေဒီ–၁၈၅၂)ခုနှစ် မင်းပြောင်းမင်းလွှဲပြီးစကာလဖြစ်ပြီးလျှင် ရွှေမြို့တော် ကြီး၌ ဘုရင်ကကြီးမှူး၍ ထီများဖွင့်ကာ တစ်မြို့လုံးထီထိုးကာ ထီးရှုံးသူများအနမတဂ္ဂဖြင့် ဆင်းရဲ သူများ ပို၍များပြားချိန် အလွန်ဆူပူလှုပ်ရှားနေသော ခေတ်ကာလပျက်ကြီးဖြစ်ပါသဖြင့် ထိုသို့ ကာလမျိုးအတွင်း ဤမျှလေးနက်ခက်ခဲသောဝိသဇ္ဇနာကျမ်းတစ်စောင်ကိုပြုစုတော်မူနိုင်သော အရှင်ဉာဏ၏ သမာဓိကား ရှာမှရှားဟုဆိုလောက်သည်။ ဤအရှင်ဉာဏ၏သမာဓိခိုင်ကြည်ပုံကို ရှေ့၌ဆက်၍ လည်းတွေ့ကြရဦးမည်။

တပည့်သစ်ရှင်ဣန္ဒက *၂

ပထမစာချဘုန်းကြီး အရှင်ဉာဏသည် စာဝါနားချိန်တွင် စစ်ကိုင်းမြို့ ညောင်ပင်သာကျောင်း သို့လည်း မကြာခဏကြွတော်မူလေ့ရှိရာ ဤတစ်ကြိမ် ညောင်ပင်သာချောင်သို့ကြွတော်မူ ရာတွင် ညောင်ပင်သာချောင်၌ ဘုတလင်မြို့အပိုင် ကျည်းပင်ချောင်ရွာမှထွက်ပြေးလာသော အသက် ၁၉–နှစ်အရွယ်လူငယ်တစ်ဦးကိုတွေ့ရသည်။

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ ၂၄–၂၅)။ အောင်သိဒ္ဓိရွှေကြီးက 'စံကျောင်း ဆရာတော်ကြီးက အလုံဦးပဏ္ဍိတနှင့် စလင်းဦးဣန္ဒာစ္စ တပည့်ကြီးနှစ်ပါးတွင် တစ်ပါးက အဖြေဝိသဇ္ဇနာရေးသားစေ လိုခြင်း အာသီသရှိ၏။ သို့ရာတွင် ထိုတပည့်ကြီးနှစ်ပါးကမရေးဘဲ ပထမစာချ ၁၄–ဝါရ အရှင်ဉာဏဇေကရေးသား၍ စံကျောင်းဆရာတော်ဘုရားကြီးထံတင်ပြရာ 'အိမ်း–တော်သားဘဲ၊ မရွယ်ဘဲစော်ကဲမင်းဖြစ်ကိုးကွဲ့'ဟု မိန့်သည်ဟု၍ ဖော်ပြထား၏။ ဦးတိုက်ဝမ်း၏ လယ်တီဝါတော်စဉ်။ (စာမျက်နှာ–၁၀)။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ သမိုင်း။ (စာမျက်နှာ–၆၈)၌– 'စံကျောင်းဆရာတော်ကြီးအထံသို့ရောက်သောအခါ 'နင့်စာ ဘာအသုံးကျသလဲ၊ နင်လိုလူကို ရည်ရွယ်၍ ငါမေးသည်မဟုတ်၊ ငါက လေးပြင်လေးရပ်ဆရာတော်တွေကို ရည်ရွယ်မေးခြင်းဖြစ်သည်။ သည်ပုစ္ဆာနှင့် နင်နှင့်အရာလော'စသည်ဖြင့် မြည်တွန်ငေါက်ငန်း၍ များစွာပြစ်တင်ရှုတ်ချတော်မူ၏–စသည်ဖြင့်ဖော်ပြထား၏။ စံကျောင်း ဆရာတော်ကြီး ထိုဝိသတိပုစ္ဆာဝိသဇ္ဇနာကိုလွှင့်ပစ်၍ အရှင်ဉာဏ၏မိတ်ဆွေ ဘုန်းကြီးဦးနာဂက သိမ်းဆည်းခဲ့ရသည် ဟူ၍လည်း ဖော်ပြထားပါသည်။ သို့ပါသော် ပါရမီဒီပနီကျမ်း၏နိဂုံး၌ အရှင်ဉာဏက– 'မိမိသည် ထိုကျေးဇူးရှင်ဆရာတော် ဘုရားကြီး၏ ခြေတော်ရင်း၌ ရိက္ခာကျိုးညွတ်ပျပ်တုံ့ဝပ်ခစားခြင်းကိုပြု၍ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာကျမ်းဂန်၊ နှုတ်သံပျောင်းပျ ဩဝါဒများကိုခံယူကာနေလေ့ရှိသော'ဟု ရေးသားထားပါသဖြင့် စံကျောင်းဆရာတော်ဘုရားကြီးသည် မိမိ၏ခြေတော် ရင်း၌နေကာ ၁၃–ဝါတိုင်တိုင်တပည့်ရင်းဖြစ်ခဲ့သူရှင်ဉာဏကို ဤမျှ ပစ်ပစ်ခါခါပြုတော်မူမည်မဟုတ်ပေ။ တစ်ကြောင်း မှာလည်း စံကျောင်းဆရာတော်ကြီးသည် ပညာရေးကိုအလွန်လိုလားပြီး ပညာရှိကိုမြတ်နိုးသောပုဂ္ဂိုလ်မျိုးဖြစ်သောကြောင့် ထိုသို့ ပစ်ပစ်ခါခါလုပ်တော်မူမည်မဟုတ်ကြောင်း တွေးဆမိပါသည်။

*၂ ဤအရှင်ဣန္ဒကသည် နောင်အခါ ဘုတလင်မြို့ ပထမကြောင်ပန်းဆရာတော်ဟုထင်ရှားလာမည့်ပုဂ္ဂိုလ်ကျော်ဖြစ်သည်။

ထိုလူငယ်၏ဖစ်မြစ်ကိုမေးမြန်းရာ အမည်မှာမောင်သံတူဖြစ်ပြီး၊ သက္ကရာဇ် ၁၂၂၂–ခုနှစ်၊ သီတင်းကျွတ်လဆန်း ၃–ရက် (အေဒီ–၁၇၊ စက်တင်ဘာလ၊ ၁၈၆၀)တနင်္ဂနွေနေ့တွင် တောင်သူမျိုးရိုး ဦးမြ၊ ဒေါ်လှိုင်တို့မှဖွားမြင်သူဖြစ်၏။ မောင်သံတူ အသက် ၆–နှစ်အရွယ်၌ ကျည်းပင်ချောင်ရွာဦးကျောင်းဆရာတော်ဦးမုနိန္ဒထံအပ်နှံလျက် အခြေခံပညာသင်ယူခဲ့၏။ အသက် ၁၄–နှစ်အရွယ်၌ မိဘနှစ်ပါးတို့က သာမဏေဘောင်သို့သွတ်သွင်းရာ ရှင်ဘွဲ့မှာ 'ရှင်ဣန္ဒက' ဖြစ်၏။ သာမဏေဘဝတွင် ကိုးကြောင်းသချာနှင့်ဗေဒင်ပညာ,သဒ္ဒါ,သင်္ဂြိုဟ်စသည်တို့ကို သုံးနှစ်ခန့်သင်ယူပြီး အသက် ၁၇–နှစ်အရွယ်တွင် ကန့်ကူလက်လှည့်ဆရာတော်ရှင်မုနိန္ဒ ပြန်လွန်တော်မူသဖြင့် ရှင်ဣန္ဒက ရှင်လိင်ပြန်ခဲ့ရ၏။ ထို့နောက် အသက် ၁၈–နှစ်၌ ခမည်းတော်ဦးမြကွယ်လွန်ပြန်၏။ မောင်သံတူသည် မိမိလက်ပေါ်မှာပင် ဥပဇ္ဈာယ်ဆရာသခင်နှင့်မွေးသဖခင်ကြီးတို့ ကွယ်လွန်သည်ကိုတွေ့မြင်ရသောအခါ သေခြင်းတရား၏ကြောက်ဖွယ်အခင်းကို ပြင်းစွာသံဝေဂဖြစ်လျက် ထိုအခါမှစ သာသနာ့ဘောင်သို့ပြန်လည်ခိုဝင်ရန် အစဉ်ကြိုးစားနေခဲ့သည်။

မောင်သံတူမှာ မိခင်မုဆိုးမကြီးကိုလည်း သာသနာ့ဘောင်သို့ဝင်လိုကြောင်း နှုတ်ကပြော၍ မထွက်။ အားမာန်တင်း၍ဖွင့်ပြောသောအခါ မယ်တော်ကြီးက မခွဲနိုင်ကြောင်းဆိုပြန်သဖြင့် မိခင်ကြီးကိုငဲ့ကွက်၍ သာသနာ့ဘောင်သို့မဝင်ခဲ့ရပေ။ မိခင်ကြီးနှင့်အတူတောင်ယာလုပ်ကိုင်ရင်း တစ်နေ့တွင် ဖြစ်ချင်ရာဖြစ်ဟုစိတ်ပိုင်းဖြတ်၍ အိမ်မှထွက်လာရာ နောက်ဆုံး စစ်ကိုင်းမြို့ ညောင်ပင်သာကျောင်းသို့ရောက်ရှိခဲ့ပြီး အရှင်ဉာဏနှင့်တွေ့ဆုံခြင်းဖြစ်သည်။

အရှင်ဉာဏသည် မောင်သံတူ၏အဖြစ်ကိုကြားသိရသောအခါ လွန်စွာကရုဏာသက်တော်မူသည့်အတွက် မောင်သံတူကို ပစ္စည်းလေးပါးထောက်ပံ့တာဝန်ယူကာ သာမဏေဝတ်ပေးလိုက်၏။ မောင်သံတူ ကိုရင်ဝတ်၍မကြာမြင့်မီ မိခင်ကြီးဒေါ်လှိုင်သည် သားငယ်မောင်သာပိုက်ကိုလက်ဆွဲပြီး စစ်ကိုင်းမြို့သို့လိုက်လာ၏။ သားကိုရင်ကိုတွေ့လျှင် ဖက်ရမ်းကာငိုယိုတော့သည်။ ထိုအခါ ကိုရင်ဝတ်ပေးမိသူအရှင်ဉာဏက ကိုရင့်မယ်တော်ကြီးဒေါ်လှိုင်ကို တရားချဖျောင်းဖျ ဟောပြောတော်မူရလေသည်။

ဒေါ်လှိုင်သည် အရှင်ဉာဏ၏ဖျောင်းဖျဟောပြောမှုကြောင့် ရှင်ဣန္ဒကသာသနာ့ဘောင်သို့ ဝင်ခြင်းကိုမတားတော့ဘဲ ဇာတိရပ်ရွာ ဘုတလင်သို့ပြန်သွားခဲ့၏။ အရှင်ဉာဏသည် မန္တလေးမြို့ စံကျောင်းတိုက်သို့ ကိုရင်ဣန္ဒကကိုခေါ်ယူခဲ့ပြီး စာပေသင်ကြားပေးကာ မွေးမြူစောင့်ရှောက်တော်မူခဲ့သည်။*၁

**ပန္တရသမဝါဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၄၂–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၈၀–ပြည့်နှစ်၊ ဇူလိုင်လ)တွင် အရှင်ဉာဏသည် (၁၅)ကြိမ်မြောက် ပန္တရသမဝါကို မန္တလေးမြို့ မြောက်ပြင်စံကျောင်းတိုက်ကြီးမှာပင် ဝါကပ်ဆိုတော်မူပါသည်။

---

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၂၈၅)။

ထိုနှစ်၌ တပည့်ရှင်ကုန္တက အသက်–၂၀ ပြည့်ပြီဖြစ်၍ ရဟန်းခံရန်အတွက် စစ်ကိုင်း တောင်ရိုး ညောင်ပင်သာချောင် ရွှေထွက်ဂူ သစ်ဆိမ့်ဆရာတော်ကြီးအား ဥပဇ္ဈာယ်ပြုတော်မူပါရန်လျှောက်ထားပြီး စစ်ကိုင်းမြို့ ညောင်ပင်သာကျောင်းတိုက်မှာပင် အရှင်ကုန္တကကို ရဟန်းဘောင်သို့ချီးမြှောက်တော်မူခဲ့ကြပါသည်။ ရှင်ကုန္တက ရဟန်းခံရာတွင် အရှင်ဉာဏကား ပစ္စည်းလေးပါးတာဝန်ယူတော်မူခဲ့ပါသည်။*၁

သောဠသမဝါဆိုတော်မူခြင်း

သက္ကရာဇ် ၁၂၄၃–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၈၁–ခုနှစ်၊ ဇူလိုင်လ)တွင် အရှင်ဉာဏသည် (၁၆)ကြိမ်မြောက် သောဠသမဝါကို မန္တလေးမြို့ မြောက်ပြင်စံကျောင်းတိုက်ကြီးမှာပင် ဝါကပ်ဆိုတော်မူပါသည်။

ဤနှစ် ဤကာလအတွင်း အရှင်ဉာဏသည် စံကျောင်းတိုက်အတွင်းရှိ ပန်းတင်ကျောင်းနေ မိတ်ဆွေဦးနာဂနှင့် စာပေဆွေးနွေးခြင်းဖြင့်အချိန်ကုန်လွန်စေသည်။ စာပေဆွေးနွေးရုံမျှမက ပါဠိ,အဋ္ဌကထာတို့၌တွေ့ရသော ပုဒ်ပါဌ်တို့၏ခက်ဆစ်အသွားအလာ မေးမြန်းဖလှယ်ကြခြင်း၊ တစ်ပါးနှင့်တစ်ပါး ပါဠိဘာသာဖြင့်စာပေးစာယူ သန္ဒေသကထာ စသည့်စမ်းသပ်ရေးသားကြခြင်းဖြင့် အရှင်ဉာဏရော ဦးနာဂပါ ပါဠိစာပေအရေးအသား များစွာတိုးတက်ခဲ့ကြသည်။*၂

ထို့ပြင် အရှင်ဉာဏသည် အဘိဓမ္မာအဖွင့်ဋီကာကျမ်းတစ်စောင်ရေးသားရန်အတွက် ပိဋကတ်သုံးပုံအဋ္ဌကထာ,ဋီကာ,မူလဋီကာ,အနုဋီကာ,ဂဏ္ဌိ,ဂန္ထန္တရတို့နှင့်တိုက်ဆိုင်ကာ အဘိဓမ္မာနှင့်ဆိုင်သောအချက်အလက်တို့ကို ပုရပိုက်၊ ဘုတ်အုပ်တို့တွင် မှတ်သားထားတော်မူ၏။ ထိုမှတ်သားချက်တို့သည် နောင်အခါဋီကာရေးသားပါက သက်သေသာဓကအရာတို့၌တည်ပေကုန်လတ္တံ့ဟူ၍ မျှော်ကိုးတော်မူခါ စုဆောင်းလာခဲ့ရာ စုဆောင်းမိသောပုရပိုက်အစောင်စောင် ဘုတ်အုပ်အမျိုးမျိုးတို့မှာလည်း ခရေပင်ကျောင်းကလေးနှင့်မဆန့်အောင်ပင်ဖြစ်လာခဲ့သည်။*၃

တစ်နေ့သောအခါ အရှင်ဉာဏသည် စံကျောင်းဆရာတော်ဘုရားကြီးကို ဆွမ်းအပင့်ရှိ၍ အတူလိုက်ပါရလေရာ၊ ထိုဆွမ်းစားပွဲ၌ မာရ်အောင်ဘုန်းကြီးနှင့်တွေ့ဆုံခဲ့ရသည်။ မာရ်အောင်ဘုန်းကြီးက 'ကိုဉာဏ၊ တပည့်တော်ကို အရှင်အာဒိစ္စရံသီက မဏိမဉ္ဇူနိဂုံးဂါထာတို့၏အနက်ရေးပေးပါဟု တောင်းပန်ထားတယ်။ အဲဒါ ကိုဉာဏက မဏိမဉ္ဇူနိဂုံးဂါထာနိဿယကို ရေးစမ်းပါ' တိုက်တွန်းအမိန့်ရှိလေသည်။

အရှင်ဉာဏမှာ မာရ်အောင်ဘုန်းကြီးအလိုရှိသည့်အတိုင်းပင် စံကျောင်းတိုက်သို့ပြန်ရောက်သည်နှင့် မဏိမဉ္ဇူသာကျမ်း၏နိဂုံးဂါထာတို့ကို နိဿယရေးတော်မူခဲ့သည်။ ပြီးလျှင် မာရ်အောင်

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၂၈၆)။

*၂ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၆၃)။

*၃ လယ်တီဆရာတော်ကြီး၏ သင်္ဂြိုဟ်မဟာဋီကာသစ်ပါဠိ။ ၁၂၆၇–ခုနှစ်။ (စာမျက်နှာ–၃)။

ဘုန်းကြီးထံသို့ပေးပို့ရာ မာန်အောင်ဘုန်းကြီးက 'ကောင်းပါပေသဗျာ'ဟု လွန်စွာချီးမွမ်းသော ဟူ၏။*၁

အရှင်ဉာဏသည် ထိုစဉ်ကာလအတွင်း 'ပရမတ်နှင့်ပညတ်အထူး'အကြောင်းကို ရေးသားတော်မူခဲ့ပါသည်။*၂ ထို့ပြင် စာသင်သံဃာတော်တို့၏မေတ္တာရပ်ခံချက်ကြောင့် ဝိဘတ်နှင့်စပ်ဆိုင်သော ဝိဘတျတ္ထဒီပနီကာသစ်တစ်စောင်ကိုလည်း ရေးသားတော်မူခဲ့ပါသည်။*၃

**သတ္တရသမဝါဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၄၄–ခုနှစ်၊ ဝါဆိုလ(အေဒီ ၁၈၈၂–ခုနှစ်၊ ဇွန်/ဇူလိုင်)တွင် အရှင်ဉာဏသည် (၁၇)ကြိမ်မြောက် သတ္တရသမဝါကို မန္တလေးမြို့ မြောက်ပြင်စံကျောင်းတိုက်ကြီးမှာပင် ဝါကပ်ဆိုတော်မူပါသည်။ ဤ(၁၇)ကြိမ်မြောက်ကပ်ဆိုတော်မူသောဝါကား မြောက်ပြင်စံကျောင်းတိုက်ကြီး၌ အရှင်ဉာဏ နောက်ဆုံးကပ်ဆိုခဲ့သောဝါဖြစ်လေသည်။*၄

မင်းတုန်းမင်းကြီးလက်ထက်(ခေါ်)လက်ထက်တော်ကြီးက မန္တလေးရတနာပုံရွှေမြို့တော်ကြီး၏ စည်ကားသိုက်မြိုက်တင့်တယ်မှုဟူသမျှသည် သီပေါမင်း၏လက်ထက်တော်လေးအခါကာလ၌ ရွှေမြို့တော်တစ်ခုလုံး စည်ကားမှုကင်းမဲ့ကာ ကျီးလန့်စာစားဖြစ်နေ၏။ 'အာဏာပိုင်သ၊ ရှင်မှတပါး၊ အခြားသသူ၊ လူမည်ဆန်းကာ၊ မဖျက်ရာတည့်'ဟူသော မဟာဇနကမင်းပျို့လာ စကားအတိုင်း ဘုရားအလောင်းမဟာဇနကမင်းကြီးတောထွက်တော်မူစဉ်က မြေ၌တားရစ်ခဲ့သောစည်းကို မင်းအားရိုသေလေးမြတ်သောကြောင့် မည်သူမျှမကျော်ဝံ့မဖျက်ဝံ့ကြဟု ရှေးစာဆိုရှိသော်လည်း ယခုအခါမူကား မင်းကစ၍ ရေထဲမှာစိုက်သောတိုင်အလား မခိုင်မာနည်းတို့ဖြင့်

---

*၁ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၂၆)။ မဏိမဉ္ဇူသာပါဠ်၌နိဿယကို သက္ကရာဇ်–၁၁၉၉(အေဒီ–၁၈၃၇)ခုနှစ် သာယာဝတီမင်းလက်ထက် အမရပူရမြို့၊ ခင်ကြီးပု(အရှင်ပညာသီဟ)ပြုတော်မူသည်ဟု ပိဋကတ်တော်သမိုင်း(အပိုဒ်–၈၃၆)၌ပြထား၏။ သို့သော် ပိဋကတ်တော်အုပ်မင်းက 'နိသျမပြီး'ဟု မှတ်ချက်ပြထားသဖြင့် ခင်ကြီးပု၏ မဏိမဉ္ဇူသာပါဠ်၌နိဿယသည် အပြီးတိုင်မရေးခဲ့ကြောင်းသိရ၏။ သို့ဖြစ်၍ မာန်အောင်ဘုန်းကြီးက မဏိမဉ္ဇူ၏ နိဂုံးဂါထာတို့ကို နိသျရေးသားပေးပါဟု အရှင်ဉာဏထံတိုက်တွန်းခြင်းဖြစ်မည်။ လယ်တီဆရာတော်ကြီး စာချဘုန်းကြီးဖြစ်စဉ်အခါက ရေးသားတော်မူခဲ့သော ထိုမဏိမဉ္ဇူသာဋီကာကျမ်း၏နိဂုံးနိဿယမူကို ယခုတိုင် မတွေ့ရဘူးပါ။

*၂ ပရမတ်နှင့်ပညတ်အထူး အဆုံးအဖြတ်ကို လယ်တီဆရာတော်ကြီး၏လယ်တီဝိနိစ္ဆယသုစိကျမ်း။ ၁၂၈၅–ခုနှစ်။ (စာမျက်နှာ–၉၅)၌ဖော်ပြထားပါသည်။

*၃ ဝိဘတျတ္ထမူရင်းကျမ်းသည် ဂါထာ ၃၇–ဂါထာရှိသော ဝိဘတ်ဆိုင်ရာသဒ္ဒါငယ်ကျမ်းတစ်စောင်ဖြစ်ပြီး၊ ပင်းယခေတ်က ပြုစုခဲ့သည်ဟု ယူဆကြသည်။ ဝိဘတျတ္ထဒီပနီ–ဟူ၍လည်းရှိသည်။ ပိဋကတ်တော်သမိုင်း (အပိုဒ်–၄၂၃)၌ရှုပါ။ ဝိဘတျတ္ထဒီကာဟောင်းတစ်စောင်ကို မန္တလေးမြို့ဘုရားကြီးတိုက်၌ လေးပြင်ကျော်သုတတဟုထင်ရှားကျော်စောသော ဆရာတော်ဦးသုတ(ဦးသုတာလင်္ကာရခေါ် ဦးသုတဇဗ္ဗ) ရဟန်း(၅)ဝါအရတွင်ရေးခဲ့ပါသည်။ အဂ္ဂမဟာထေရုပ္ပတ္တိဒီပနီ။ (စာမျက်နှာ–၇၀)။ ရှင်သုတဇဗ္ဗ၏ ဝိဘတျတ္ထဋီကာ။ သဒ္ဒါငယ်ဋီကာ ၃–စောင်တွဲ။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၈–ခုနှစ်။ လယ်တီဆရာတော်ကြီးရေးသားသည်ဆိုသော ဝိဘတျတ္ထဋီကာသစ်စာမူကို ယခုတိုင် မတွေ့ရဘူးပေ။

*၄ အရှင်ဉာဏသည် ဤစံကျောင်းတိုက်ကြီး၌ ၁၂၂၉–ခုနှစ် ဒုတိယမြောက်ဝါမှစ၍၊ ၁၂၄၄–ခုနှစ် သတ္တရသမ (၁၇)ဝါမြောက်တိုင် (၁၆)ဝါ၊ (၁၆)နှစ်တိုင်တိုင် ဝါကပ်သီတင်းသုံးတော်မူခဲ့ခြင်းဖြစ်ပါသည်။

ခုအမိန့်တော်ပြဋ္ဌာန်းလိုက်၊ တော်ကြာဖျက်လိုက် တည်ငြိမ်မှုကင်းစွာအုပ်ချုပ်နေသဖြင့် တိုင်းကား ပြည်ရွာတစ်ဝန်း အေးချမ်းငြိမ်သက်မှုဟူသည် မြူမျှမရှိတော့။ အေးချမ်းငြိမ်သက်မှုမရှိသောနေရာ၌ စီးပွား,ပညာ,ကုသိုလ်စသည်ကို ဘာမျှရှာ၍ရတော့မည်မဟုတ်ပေ။

ရှေးက စာသင်သားများနှင့်စည်ကားခဲ့သော ကျောင်းကန်ကြီးများမှာ ယခုအခါ ရှင်ရဟန်းတို့ ကင်း၍ တိတ်ဆိတ်ခြောက်သွေ့ခဲ့ရပြီ။ ရှေးကနေ့ဝ,ညဝါစာအံသံများဖြင့် ဝေစည်ခဲ့သော ပရိယတ္တိ ရိပ်မြုံ ရတနာပုံရွှေမြို့တော်ကြီး၌ ကြက်သံကျီးသံလောက်သာကြားရချေသည်။ အကြောင်းမှာ ခေတ်ကာလမကောင်းသောကြောင့် ရှင်ရဟန်းတို့ မိမိရပ်ဌာနအသီးသီးသို့ ပြန်ကြွကြသော ကြောင့်ဖြစ်သည်။ ထိုသို့သောကာလမျိုး၌ မထင်မှတ်ဘဲပလိပ်ရောဂါကပ်ဘေးကြီးကလည်း ကျရောက်လာခဲ့ပြန်ရာ ပလိပ်ရောဂါဘေးကြောင့် မင်းနေပြည်တော်တစ်ခိုတွင် အသေအပျောက် အလွန်များပြားခဲ့၏။

စလင်းဆရာတော်အရှင်ပဏ္ဍိစ္စသည် ပလိပ်ရောဂါကိုကြောက်ရွံ့သည်ကတစ်ကြောင်း၊ မင်းညီမင်းသား မြို့စားမြို့ဝန်တို့နှင့်အကျွမ်းတဝင်အဆက်အသွယ်ရှိသူတို့အား စုံစမ်းထောက်လှမ်း ခြင်းခံရသည့်အထဲတွင် ပါဝင်မည်စိုးသည်ကတစ်ကြောင်းတို့ကြောင့် မန္တလေးရွှေမြို့တော်၌မနေခဲ့ တော့ဘဲ မိမိ၏ဇာတိ စလင်းမြို့သို့ပြန်ကြွရန် စီစဉ်တော်မူလေသည်။

ထိုနှစ် ၁၂၄၄-ခုနှစ်၊ တန်ဆောင်မုန်းလ (အေဒီ ၁၈၈၂-ခုနှစ်၊ အောက်တိုဘာလ) တွင် စလင်းဆရာတော်သည် စလင်းမြို့သို့ကြွကာနီး တပည့်ကြီးရှင်ဉာဏကို မိမိနှင့်အတူလိုက်ပါပြီး စလင်း,စကုတွင် ဆရာတပည့်နှစ်ဦး အေးအေးချမ်းချမ်းစာဝါပို့ချ၍ သာသနာပြုကြစို့-ဟု အမိန့်ရှိတော်မူပါသော်လည်း တပည့်ရှင်ဉာဏက ဆရာတော်နှင့်အတူ မလိုက်ပါလိုသောကြောင့် ဆရာတပည့်နှစ်ဦး အထူးဝမ်းနည်းကြရသည်။

စလင်းဆရာတော် မန္တလေးမြို့တော်မှပြန်ကြွသည့်အခါ အရှင်ဉာဏသည် ဂေါဝိန်ဆိပ်ကမ်း အထိလိုက်ပို့ပြီး နောက်ဆုံးဦးချကန်တော့ခြင်းဖြင့် ဦးချကန်တော့ခဲ့ပါသည်။ စလင်းဆရာတော်သည် လည်း မန္တလေးမှထွက်ခွာ၍ မကွေးမြို့ဆိပ်ကမ်းသို့ရောက်လျှင် ဦးရီးတော်သူဆရာတော် ဦးသြဘာသထံဝင်ရောက်ဝတ်ပြုရာ ဦးသြဘာသ၏တိုက်တွန်းချက်ဖြင့် စလင်းမြို့သို့မသွားတော့ဘဲ မကွေးမြို့ လေးထပ်ကျောင်းမှာနေပြီး စာချခြင်း,ကျမ်းပြုခြင်းစသော သာသနာ့တာဝန်များကိုရွက် ဆောင်နေတော်မူခဲ့ပါသည်။*၁

## မြောက်ပြင်မီးကြီး

မန္တလေးနေပြည်တော်အတွင်း သီပေါမင်းနန်းတက်စမှာပင် မီးမကြာမကြာလောင်ခဲ့ရာ တွင် သက္ကရာဇ် ၁၂၄၄-ခုနှစ်၊ နောင်းတန်ခူးလပြည့်ကျော် ၃-ရက် (အေဒီ ၁၈၈၃-ခုနှစ်၊ မတ်လ ၂၅-ရက်)နေ့ တစ်ချက်တီးကျော်သုံးမောင်းခန့်အချိန်တွင် အာဏာစိုးတန်းအရှေ့ဘက်အိမ်ကို စ၍မီးစွဲလောင်ရာ ထိုမီးသည် လက်မထောက်တန်း တရားရုံးမြောက်ဘက် ဝန်ကြီးဝင်းသုံးရပ်၊

*၁ စလင်းဆရာတော်၏ စလင်းဝိနည်းဂဏ္ဌိသစ်၊ ပထမတွဲ။ ၁၉၉၆-ခုနှစ်။ (စာမျက်နှာ-ကီ)။

၎င်းက ညောင်ဝန်းဝန်ထောက်အိမ်၊ ၎င်းက ဆင်ဝန်အိမ်ဝင်း၊ ၎င်းက မြောက်ဒဝယ်တန်းရှိ အိမ်များ၊ မြောက်မြို့ရိုး မန်းဦးတံခါးပြာသာဒ်အဆင့်ဆင့်သို့ကူးစက်လောင်ကျွမ်းရာ မြောက်ပြင် စံကျောင်းတော်၏တောင်မျက်နှာနှင့် အနောက်မျက်နှာမှ ကျောင်းရံ ၄၆-ကျောင်းတို့ကို မီးစွဲ လောင်လေသည်။*၁ ဤမီးကား မြောက်ပြင်မီးကြီးဖြစ်သည်။

မင်းနေပြည်တော်ကြီးဖြစ်လင့်ကစား အုပ်ချုပ်မှုလျော့ရဲနေချိန်၌ မီးငြိမ်းသတ်ရန်တာဝန်ရှိ သူတို့ပျောက်ချက်သားကောင်းနေသည်။ ဤမြောက်ပြင်မီးကြီးသည် စံကျောင်းတိုက်အတွင်းရှိ ကျောင်းရံ ၄၆-ကျောင်းကိုဝါးမျိုရုံသာမက ထိုမှ မြောက်ရှိ မန္တလာရာမ(ပြည်)ကျောင်းကြီး၊ ငါးကျမ်းတိုက်ကျောင်းကြီး၊ မြောက်သစ်ဆိမ့်တိုက်အတွင်းရှိကျောင်းရံများ၊ ထိုမှတဖန် မန္တလေး တောင်အနောက်စောင်းတန်း၊ တောင်တော်ထိပ်တံခွန်တိုင်ကြီးများအထိ လောင်စရာကုန်သည့် တိုင်အောင် အလုံးစုံလောင်ကျွမ်းပြီးမှပင် မီးငြိမ်းစဲတော့သည်။

ထိုမြောက်ပြင်မီးကြီး၏လောင်မြိုက်မှုကြောင့် စံကျောင်းတိုက်ကျောင်းရံ ၄၆-ကျောင်း မီးလောင်ကျွမ်းခံခဲ့ရာတွင် အရှင်ဉာဏ၏ခရေပင်ကျောင်းကလေးသည်လည်း အပါအဝင်ဖြစ်၏။ ထိုကျောင်းကလေးနှင့်အတူ အရှင်ဉာဏ အနှစ်နှစ်အလလက အပင်တပန်းကြီးရှာဖွေစုဆောင်း သိုမှီးခဲ့သော မှတ်စုမှတ်ရာ ပုရပိုက်,ပေစာ,ဘုတ်အုပ်တို့သည်လည်း မီးဝါးမျိုခြင်းကိုခံခဲ့ရလေ သည်။ ဤသို့ အဘိဓမ္မတ္ထသင်္ဂြိုဟ်အဖွင့်ဋီကာတစ်စောင်ရေးသားရန် မိမိနှစ်ကာလများစွာ စုဆောင်းထားသည့် မှတ်စုမှတ်ရာများ မီးလောင်းကျွမ်းခံရမှုကို နောင်သောအခါ၌ လယ်တီ ဆရာတော်ကြီးက အောက်ပါအတိုင်းမှတ်တမ်းတင်ခဲ့ပါသည်။

တတော တီသုပိဋကေသု အဘိဓမ္မတ္ထပဋိသံယုတ္တာနိ ပါဠိဝစနာနိ ပေါတ္ထ ကေသု အာရောပေတွာ ဌပိတာနိ။ ဋီကာရစန ကာလေ သာဓကာနိ ဘဝိဿန္တီတိ။ ကေသ္မိံ ပန ကာလေ မဏ္ဍလေးနဂရေ မဟာအဂ္ဂိဒါဟော ဥဋ္ဌာသိ၊ တဒါ တာနိပေါတ္ထကာနိ ဒဍ္ဍာနိ ဟောန္တိ၊ ဋီကံ ရစယိတုံ ဥဿာဟော ပဿမ္ဘိ။ ။*၂

မြန်မာပြန်ကား-

ထိုအခါမှစ၍ ပိဋကတ်သုံးပုံတို့ကို သေချာစွာရှုကြည့်တော်မူ၍ အဘိဓမ္မာနှင့် စပ်ဆိုင်သောအချက်အလက်တို့ကို ကောင်းစွာရွေးကောက်တော်မူပြီးလျှင် ပုရပိုက်, ဘုတ်အုပ်တို့၌ တင်မှတ်ရေးသား၍ထားတော်မူ၏။ နောင် ဋီကာတစ်စောင်ရေးဖြစ်ပါ မူကား ထိုမှတ်ချက်တို့သည် သက်သေသာဓကအရာတို့၌ တည်ပေကုန်လတ္တံ့ဟူ၍ မျှော်ကိုးတော်မူပြီး အခါများစွာစုဆောင်းခဲ့လေ့ရှိ၏။

နောင် တစ်ရံရောအခါ၌ မန္တလေးမြို့တော်ကြီး၌ ကြီးစွာသောမီးဘေးကြီး ပေါ်ပေါက်လာ၏။ ထိုအခါ ရေးမှတ်၍ထားကုန်သော ပုရပိုက်နှင့်ဘုတ်အုပ်များသည်

---

*၁ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈-ခုနှစ်။ (စာမျက်နှာ-၅၉၄)။

*၂ လယ်တီဆရာတော်ကြီး၏ သင်္ဂြိုဟ်မဟာဋီကာသစ်ပါဌ်။ ၁၂၆၉-ခုနှစ်။ (စာမျက်နှာ-ဆ)။

မီးဘေးနှင့်တွေ့ကြုံကြ၍ ပျက်စီးကြလေ၏။ ထိုအခါ အားကိုးအားထားအပ်သော အရာဌာနတို့ ပျက်စီးယွင်းပါးလေသဖြင့် အဘိဓမ္မတ္ထသင်္ဂြိုဟ်ကျမ်း၏အဖွင့်ဋီကာ တစ်စောင်ရေးအံ့ဟု ကြံစည်သောအကြံသည် နောင်သို့ဆုတ်၍ ငြိမ်းစဲခဲ့၏-ဟု မှတ်တမ်းတင်တော်မူခဲ့ပါသည်။*၁

ထို့ပြင်မကသေး မောဂ္ဂလ္လာန်အဖွင့်ကျမ်းရေးသားရန်အတွက် သဒ္ဒါဆိုင်ရာအချက်အလက်များ မီးလောင်သည့်အထဲတွင် ပါဝင်ပျက်စီးသွားခဲ့ရပုံနှင့်စပ်၍ ရေးထားတော်မူသည်မှာ-

အထ မန္ဒလေးနဂရေ မဟာအဂ္ဂိဒါဟော ဉဋ္ဌာသိ။ ဗဟူနိ ဂေဟာနိစ ဝိဟာရာစ ဒမှာ အဟေသုံ။ တဒါ သော ပေါတ္ထကောစ ဒမှော အဟောသိ။ တဒါ မောဂ္ဂလ္လာန ဒီပနိံ ရစယိတုံ မမသက်ပွေါ ပဋိပဿမ္ဘိ။ ။*၂

မြန်မာပြန်ကား-

ထိုစဉ်အခါ မန္တလေးမြို့တော်ကြီး၌ ကြီးစွာသောမီးဘေးသည် ဖြစ်ပေါ်လာရကား များစွာကျောင်းအိမ်တို့ကိုမီးလောင်ခဲ့၏။ ထိုမီးဘေးဖြစ်စဉ် ယခင်မှတ်သားစီစဉ်၍ထားအပ်ကုန်သော ပေ,ပုရပိုက်ဘုတ်အုပ်တို့သည် မီးတွင်းသို့ပါလေကုန်၏။ ထိုသို့မီးပါလေသောအခါ၌မူကား မောဂ္ဂလ္လာနဒီပနီကိုရေးသားအံ့ဟူ၍အားခဲကြိုးစား၍ ထားအပ်ကုန်သော မဟာထေရ်မြတ်၏အကြံတော်သည် ငြိမ်းစဲ၍သွားခဲ့၏-*၃ဟူ၍ ဖြစ်ပါသည်။

ဤသို့လျှင် အနှစ်နှစ်အလလအားထုတ်ကြိုးပမ်းစုဆောင်းထားအပ်သော အဘိဓမ္မာဆိုင်ရာ မှတ်စုများ၊ သဒ္ဒါဆိုင်ရာမှတ်စုမှတ်ရာများဆုံးရှုံးခဲ့ရသည့်အတွက် အရှင်ဘုရား မည်မျှစိတ်ပျက်လက်လျှော့ကာ စိတ်ဆင်းရဲရောက်ခဲ့မည်ကို စာပေဝါသနာရှင်ပုဂ္ဂိုလ်တိုင်း ကျမ်းပြုပုဂ္ဂိုလ်တိုင်း ကိုယ်ချင်းစာမိကြမည်ဖြစ်သည်။ တော်ရုံလျှော်ရုံပုဂ္ဂိုလ်ဖြစ်ပါမူ မထူးတော့ပြီဟု လူထွက်မိကောင်းထွက်မိပေလိမ့်မည်။

လယ်တီဆရာတော်လောင်းလျာအရှင်ဘုရားသည်ကား ထူးခြားသောပုဂ္ဂိုလ်ပါရမီရှင်ဖြစ်သည့်အလျောက် 'အဂ္ဂိ သာဓာရဏာ ဘောဂါ= ကမ္ဘာမှာရှိသမျှအသုံးအဆောင်အဆောက်အအုံမှန်သမျှ မီးနှင့်ဆက်ဆံနေကြရပေသည်တကား'-ဟူသောဒေသနာကို နှလုံးသွင်းလျက် ဘုရားသားတော်ပီပီ လောကဓံ၏ ရိုက်ပုတ်မှုကိုအထူးသည်းခံကာ ဂန္ထဓုရ,ဝိပဿနာဓုရ ဓုရနှစ်ဖြာကိုမချွတ်စေဘဲ စာကြည့်စာချ မပျက်နေတော်မူခဲ့၏။

*၁ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ဘာသာပြန်ဆိုချက်ဖြစ်သည်။ လယ်တီဆရာတော်ကြီး၏ သင်္ဂြိုဟ်မဟာဋီကာသစ်ပါဌ်။ ၁၂၆၉-ခုနှစ်။ (စာမျက်နှာ-၃)။

*၂ လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီပါဌ်။ ၁၂၆၇-ခုနှစ်။ (စာမျက်နှာ-၅)။

*၃ လယ်တီပဏ္ဍိတဦးမောင်ကြီး၏ မြန်မာပြန်ဖြစ်သည်။ လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီပါဌ်၊ ၁၂၆၇-ခုနှစ်။ (စာမျက်နှာ-၅)။

## မုံရွာမြို့သို့အပြန်

မြောက်ပြင်မီးကြီးလောင်ပြီးသည့်နောက် အရှင်ဉာဏအဖို့မှာ နေထိုင်ရေးအခက်အခဲကြုံတွေ့နေရ၏။ ထိုသို့ဖြစ်နေစဉ် သက္ကရာဇ်–၁၂၄၄–ခုနှစ်မကုန်မီ (အေဒီ ၁၈၈၃–ခုနှစ်၊ ဧပြီလ) ရက်ပိုင်းအလိုမှာပင် တပည့်တစ်ဦးဖြစ်သူ မုံရွာမြို့ ရွှေစည်းခုံတိုက် ပြာသာဒ်ကျောင်းနေ အရှင်ဉာဏဝံသ (လူအမည် ဦးစံချိန်)[*၂] က အရှင်ဉာဏထံသို့ရောက်လာပြီးလျှင် မုံရွာမြို့မှ ရွှေစည်းခုံဆရာတော် ဦးစန္ဒနှင့် ကံပြားဆရာတော်တို့က ‘ဆရာ့အား မုံရွာသို့ကြွတော်မူခဲ့ပါရန်’ဟု ပင့်ဖိတ်ကြောင်း လာရောက်လျှောက်ထားခဲ့၏။[*၃]

အရှင်ဉာဏသည် တပည့်ရှင်ဉာဏဝံသ၏လျှောက်ချက်ကိုကြားရလျှင် တပည့်အဖော်များနှင့် မုံရွာမြို့သို့ခေတ္တပြန်နေရသော် သင့်မြတ်လိမ့်မည်ဟု ကြံမိလေသည်။ ထို့ပြင် မုံရွာမြို့ ရွှေစည်းခုံတိုက်ဘုန်းကြီးကလည်း မတွေ့ရသည်မှာကြာပြီဖြစ်ရာ တွေ့လိုကြောင်းပင့်ချက်လည်းရှိနေခဲ့သည်မှာကြာလှပေပြီ။ သို့အတွက် ယခုလိုနေထိုင်ရေးခက်ခဲ တိုင်းရေးပြည်ရေးမတည်ငြိမ်သည့်ကာလအတွင်း ကိုယ့်ရပ်ကိုယ့်ရွာ မုံရွာသို့ကြွနေရန်သင့်ပြီဟုဆုံးဖြတ်ပြီးလျှင် မုံရွာမြို့သို့ပြန်ကြွရန် စီစဉ်တော်မူလေသည်။

ထိုသည့်နောက် အရှင်ဉာဏသည် စံကျောင်းဆရာတော်ဘုရားကြီးထံ မုံရွာမြို့သို့ပြန်မည့်အကြောင်း ရိုသေစွာလျှောက်ထားခဲ့ပါသည်။ စံကျောင်းဆရာတော်နှင့်တိုက်သံဃာအပေါင်းတို့က တိုက်တာ၏ကျက်သရေကိုဆောင်ကာ တိုက်တာ၌အစွဲအမြဲ နှစ်ပေါင်း ၁၇–နှစ်နေ၍ တိုက်တာ၏အကျိုးကိုဆောင်ရွက်တော်မူခဲ့သော စာချဘုန်းကြီးအရှင်ဉာဏအား မုံရွာသို့ပြန်မကြွပါရန် တားမြစ်ကြကုန်၏။

သို့ပါသော် မြို့ရွာကိုအထူးငြီးငွေ့ကာ လူသူရောရောသောသောနှင့်နေလိုစိတ် အထူးကင်းနေပြီးဖြစ်၍ အရှင်ဉာဏသည် မုံရွာသို့ပြန်ရန်ကိုသာဆုံးဖြတ်ပြီးဖြစ်ပါကြောင်း လျှောက်ထားခဲ့လေသည်။ ကျေးဇူးရှင်စံကျောင်းဆရာတော်ကြီးကို လက်ယာရစ်လှည့်ကာ ကောင်းစွာရှိခိုးတော်မူပြီး ရတနာပုံမန္တလေးရွှေမြို့တော်စံကျောင်းတိုက်ကြီးမှ နောက်ပါတပည့်တစ်ကျိပ်ကျော်နှင့်အတူ မုံရွာမြို့သို့ပြန်လည်ကြွတော်မူခဲ့လေသည်။[*၃]

---

*၁ ဤအရှင်ဉာဏဝံသသည် နောင်အခါ အလုံမြို့ ကြီးခေါင်ကြီးတောရ၌ တောရဝင်ပြီး၊ အလုံမြို့ ရွှေကျောင်းဘုန်းကြီး ဦးစံချိန်ဟုထင်ရှားသောပုဂ္ဂိုလ်ဖြစ်သည်။

*၂ ရွှေမုံတင်၏ လယ်တီနေမင်းကျမ်း။ (စာမျက်နှာ–၆၃)နှင့် လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၂၇)။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၇၃)။ အချို့သောလယ်တီထေရုပ္ပတ္တိကျမ်းများတွင် လယ်တီဆရာတော်ကြီးသည် မန္တလေးမြို့မှ ၁၂၄၄–ခုနှစ်၊ တပို့တွဲလဆန်း ၁၄–ရက် (အေဒီ–၂၀၊ ဇန်နဝါရီလ၊ ၁၈၈၃)ခုနှစ်တွင် မုံရွာမြို့သို့ထွက်တော်မူခဲ့ကြောင်းရေးသားကြရာ၊ ထိုအချိန်မှာ မြောက်ပြင်မီးကြီးမလောင်မီ ၂–လကာလဖြစ်သည်။ နိရုတ္တိဒီပနီပါဠ်နှင့် သဂြိုဟ်မဟာဋီကာသစ်ပါဠ်ကျမ်းတို့၌ဖော်ပြထားသည့် ပါဠိဘာသာနိဒါန်းများအရ မန္တလေးမြို့ မြောက်ပြင်မီးကြီးလောင်စဉ်အခါက လယ်တီဆရာတော်ကြီးသည် မန္တလေးမြို့စံကျောင်းတိုက်မှာပင် စာချဘုန်းကြီးအဖြစ် သီတင်းသုံးလျက်ရှိနေကြောင်း ထင်ရှားပါသည်။

*၃ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၇၄)။

## လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်
## [စတုတ္ထပိုင်း]
## သင်္ဂြိုဟ်ဦးဝိုင်းကျောင်းဘုန်းကြီးဘဝ
## (သက္ကရာဇ် ၁၂၄၄–သက္ကရာဇ် ၁၂၄၈)*၁

### ရွှေစည်းခုံကျောင်းတိုက်

မန္တလေးရွှေမြို့တော်စံကျောင်းတိုက်ကြီးမှ ဂဏဝါစက ပထမစာတော်ချ ဘုန်းကြီးအရှင်ဉာဏသည် အလုံဇာတိ အရှင်ဉာဏဝံသ(ဦးစံချိန်)၊ ခင်မွန်ရွာဇာတိ ပထမပြန်အရှင်ကေတုမာလာ၊ ကလေးဝဇာတိ အရှင်သီရိနှင့် အရှင်နေယျ*၂ ညီနောင်နှစ်ပါးအပါအဝင် သံဃာစုစုပေါင်းတစ်ကျိပ်တို့ကိုနောက်ပါပြု၍ မုံရွာ*၃ သို့ ကြွတော်မူခဲ့ပါသည်။*၄ အရှင်ဉာဏနှင့် နောက်ပါသံဃာတစ်ကျိပ်တို့သည် မုံရွာသို့ရောက်ရှိသောအခါ ရွှေစည်းခုံဘုရားကြီးအား ရှေးဦးပထမ ဦးတိုက်ဝတ်ပြု တော်မူကြသည်။ ထို့ပြီးနောက် ရွှေစည်းခုံကျောင်းတိုက်ဘုန်းကြီးဦးစန္ဒထံတွင် တည်းခိုသီတင်းသုံးတော်မူကြသည်။*၅

မန္တလေးရွှေမြို့တော်မှကြွလာသော ပထမစာတော်ချအရှင်ဉာဏ၏ သတင်းသည် မုံရွာလေ့ကူးတစ်ဝိုက်၌ နေ့ချင်းညချင်းဆိုသလို ပြန့်နှံ့သွားခဲ့ လေသည်။ ထိုစဉ်အခါက အရှင်ဉာဏကို ရတနာပုံမန္တလေးရွှေမြို့တော်မှ ပြန်ကြွလာသောဘုန်းကြီးဖြစ်၍ 'မန်းပြန်ဘုန်းကြီး' ဟုခေါ်ကြသည်။*၆

---

*၁ အေဒီ ၁၈၈၂–ခုနှစ်၊ ပြေလမှ အေဒီ ၁၈၈၇–ခုနှစ်၊ ပြေလအထိဖြစ်သည်။

*၂ အရှင်သီရိသည် နောင်အခါ ဘီဇန်းဆရာတော်ကြီးဟုလည်းကောင်း၊ အရှင်နေယျသည် နောင်အခါ ပထမကလေးဝတောကျောင်းဆရာတော်ကြီးဟုလည်းကောင်း ထင်ရှားခဲ့ပါသည်။

*၃ မုံရွာမြို့သည် ထိုအချိန်(အေဒီ ၁၈၈၂–ခုနှစ်)က ရွာအဆင့်သာရှိသေးသည်။ မြို့–မဖြစ်သေးပေ။ သို့ပါ၍ 'မုံရွာ'–ဟူရာတွင် 'မုံ'အမည်ရှိသော 'ရွာ'ဟု ယူရန်ဖြစ်သည်။ 'မုံ'သည် 'မုံတိုင်'၊ 'မုံပင်'၊ 'မွန်'စသည်တို့ကိုရည်ညွှန်းလိုပြီး၊ အချို့က 'မုန့်သည်မ'၏အတိုအမည် 'မုန့်ရွာ (Cake Village) > မုံရွာ' ဟူ၍ အဓိပ္ပာယ်ကောက်ယူကြပါသည်။

*၄ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၂၇)။

*၅ အောင်သိဒ္ဓိရွှေကြီး၏ ပထမလယ်တီဆရာတော်ဘုရားကြီး၏ ဝါတော်စဉ်ထေရုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ–၁၁)။ ဆရာစိုး၏ လယ်တီဆရာတော်ဘုရားကြီးအတ္ထုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ–၈)။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၇၄)။ ဓမ္မာစရိယဦးဌေးလှိုင်၏ ရဟန္တာ ၁နှင့်ပုဂ္ဂိုလ်ထူးများ။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၂၉၄)စသည့်ကျမ်းများတွင် 'မုံရွာမြို့သို့ ရောက်လျှင် ရွှေစည်းခုံတိုက်အရှေ့ဘက်ရှိ ပြာသာဒ်ကျောင်းတိုက်၌နေသည်'ဟု ဖော်ပြထား ကြသည်။

*၆ ရွှေမုံတင်၏ လယ်တီနေမင်းကျမ်း။ (စာမျက်နှာ–၆၄)။

အရှင်ဉာဏ မုံရွာသို့ရောက်ပြီးနောက်တစ်နေ့ ရွှေစည်းခုံကျောင်းဘုန်းကြီးဦးစန္ဒက တိုက်သံဃာများရှေ့မှောက်တွင် မိမိပိုင်ကျောင်းတိုက်ကြီးကို ဂရုဘဏ်,လဟုဘဏ်နှင့်တကွ အရှင်ဉာဏအား လွှဲအပ်တော်မူလေသည်။[*၁] အရှင်ဉာဏအဖို့မှာ မြောက်ပြင်စံကျောင်းကြီး မီးတပြောင်ပြောင်တောက်လောင်ကျွမ်းမြိုက်ခံရခြင်းကို မျက်စိတွင်းမှမပယ်ဖျောက်နိုင်သေးသည့် အတွက် ရွှေစည်းခုံဆရာတော်စွန့်လှူသော တိုက်တာအာရာမ်ကို ငြင်းပယ်တော်မူခဲ့ပါသည်။ သို့သော် ဤရွှေစည်းခုံကျောင်းတိုက်အတွင်း၌ စာဝါများကိုမူ ကူညီပို့ချပေးမည်ဖြစ်ကြောင်း ကတိထား တော်မူခဲ့၏။ ကတိထားသည့်အတိုင်း မိမိနှင့်အတူပါလာသော သံဃာတစ်ကျိပ်နှင့် ရွှေစည်းခုံတိုက် အတွင်းရှိ သံဃာတော်တို့ကို ထိုနေ့မှာပင်စတင်၍ စာဝါပို့ချပေးတော်မူခဲ့ပါသည်။ ရွှေစည်းခုံဘုရား အနီးရှိ အခြားတိုက်တာ[*၂] တို့မှသံဃာတော်များလည်း အရှင်ဉာဏ၏စာဝါလာ၍တက်ကြသည်။

ထိုအချိန်က မုံရွာမြို့ပေါ်တွင်အထင်အရှားတည်လျက်ရှိနေသောကျောင်းတိုက်ကြီးများမှာ- သိမ်တော်တိုက်၊ သာဖံတိုက်၊ ပုဗ္ဗာရုံကျောင်း၊ ယွန်းကျောင်း[*၃]၊ စေတီယတိုက်၊ ပေပင်ကျောင်း၊ လောကမှန်ကင်းတိုက်၊ အနောက်လေးထပ်ကျောင်း၊ အရှေ့အုတ်ကျောင်း၊ အနောက်အုတ်ကျောင်း၊ ဇေတဝန်ကျောင်း၊ သရက်တောကျောင်း၊ အရှေ့ဇောင်းချမ်းပင်တိုက်၊ ခါးပန်းနီကျောင်း-စသည်တို့ ဖြစ်ကြပါသည်။[*၄] ထိုအခါ (အေဒီ-၁၈၈၈)က မုံရွာရှိလူဦးရေမှာ၂၀၀၀-ခန့်သာရှိသေး၍[*၅] ရွာ လူဦးရေနှင့်ဆိုသော် ကျောင်းကန်အရေအတွက်ကသာနေသဖြင့် မုံရွာသည် သာသနာထွန်း တောက်ရာဌာနဟုဆိုရပေမည်။[*၆]

## ဝတ်နိဗဒ်လုပ်ငန်းကြီးကိုတည်ထောင်ခြင်း

ဤသို့ အရှင်ဉာဏသည် မုံရွာမြို့ ရွှေစည်းခုံတိုက်၌သီတင်းသုံးနေစဉ်အတွင်း တစ်နေ့သော် ရွှေစည်းခုံဘုရားကြီးဝင်းအတွင်းလှည့်လည်ကြည့်ရှုရာ၊ ဘုရားကြီးအရှေ့ဘက် အာရုံခံတစ်နေရာ တွင် မြေများမညီမညွတ် ချိုင့်ကျင်းကြီးဖြစ်နေသည်ကို တွေ့မြင်တော်မူပါသည်။ ထိုသို့ ဘုရားဝင်း အတွင်း မသန့်မရှင်းမညီမညွတ်ဖြစ်နေသည်ကိုတွေ့ရသောအခါ အရှင်ဉာဏ၏စိတ်၌ ဤမျှ

---

[*၁] ရွှေမုံတင်၏ လယ်တီနေမင်းကျမ်း။ (စာမျက်နှာ-၆၃)။

[*၂] ရွှေစည်းခုံဘုရားအနီးရှိ ကျောင်းတိုက်ကြီးအချို့၏အမည်ကို မုံရွာမြို့၊ ရွှေစည်းခုံစေတီတော်မြတ်ကြီးဘုရားသမိုင်း။ ၂၀၀၆-ခုနှစ်။ (စာမျက်နှာ-၃၃)၌ရှုပါ။

[*၃] မုံရွာမြို့၊ မြင်းမူလမ်းပေါ်ရှိ မာလာရာမယွန်းကျောင်း မဟုတ်ပါ။ ရှေးကရှိခဲ့ဖူးသော ယွန်းကျောင်းဖြစ်လိမ့်မည်။

[*၄] ခင်မွန်သုံးဂိုဏ်းချုပ်ဆရာတော်ကြီး၏ ဝိနည်းဖြတ်ထုံးများနှင့် မုံရွာမြို့ ဆုတောင်းပြည့်ဘုရားကြီး၏ အရှေ့ဘက်ရှိ အာရုံခံ တန်ဆောင်းကြီးအတွင်း တောင်ဘက်နံရံတွင် သက္ကရာဇ် ၁၃၂၅-ခုနှစ်၌ရေးထိုထားသောကျောက်စာ-တို့အရဖြစ်သည်။ ဦးကြည်ဖေ၏ ဝိနည်းဓမ္မကံစီရင်ထုံးများ။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၈၂-ခုနှစ်။ (စာမျက်နှာ- ၁၈၉၊ ၂၀၈၊ ၂၁၅၊ ၃၁၄၊ ၃၂၇-စသည်)။

[*၅] မုံရွာမြို့၊ ရွှေစည်းခုံစေတီတော်မြတ်ကြီးဘုရားသမိုင်း။ ၂၀၀၆-ခုနှစ်။ (စာမျက်နှာ-၂၇)။

[*၆] မိဂဒါဝုန်ဆရာတော်အရှင်ဝါယာမိန္ဒ၏ မုံရွာနှင့်သာသနာ(ဆောင်းပါး)။ မုံရွာမြို့ ရာပြည့်မော်ကွန်းမဂ္ဂဇင်း။ ၁၉၈၉-ခုနှစ်။ (စာမျက်နှာ-၄၁)။

မုံရွာမြို့၊ရွှေစည်းခုံစေတီတော်မြတ်ကြီး



လယ်တီဆရာတော်ကြီး၏တပည့်ရင်း
အရှင်နေယျ(ပထမကလေးဝတောကျောင်း)



လယ်တီဆရာတော်ကြီး၏တပည့်ရင်း
အရှင်ဉာဏဝံသ(ဦးစံချိန်)

အမြင်ဆိုးသောနေရာကို ပြုပြင်လိုသောဆန္ဒများဖြစ်ပေါ်လာသည်။ ရှေးယခင်ကလည်း ဘုရားတစ်ဆူဆူတွင် စေတီယင်္ဂဏဝတ်ထား၍ နေ့စဉ်သွားရောက်ပြုပြင်လိုသောဆန္ဒရှိပြီးဖြစ်လေရာ၊ ယခုရွှေစည်းခုံဘုရား၌ပြုပြင်ရန်ကိစ္စမြင်သောအခါ၌ ဘုန်းတော်ကြီးအရှင်ဉာဏ၏စိတ်၌ 'ရှေးရှေးက ကြံစည်ခဲ့သမျှ ယခု ငါ့အကြံအစည်ပြည့်စုံပြီးမြောက်အောင်မြင်ပြီဟု ဝမ်းမြောက်ဝမ်းသာဖြစ်တော်မူသည်။*၁

နောက်တစ်နေ့တွင် အရှင်ဉာဏသည် ရေအိုးတစ်လုံးနှင့်တံမြက်တစ်ချောင်းတို့ကိုယူဆောင်ပြီး ရွှေစည်းခုံဘုရားဝင်းအတွင်း နေ့စဉ်ဝတ်ထားကာ စေတီယင်္ဂဏဝတ်ကိုပြုတော်မူခဲ့ပါသည်။*၂ ဘုရားဝင်းကြီးအတွင်း နေ့စဉ်ရေဖြန်းခြင်း၊ တံမြက်လှည်းခြင်း၊ အမှိုက်များကိုရှင်းလင်းခြင်း ပြုတော်မူရာ အထူးအားဖြင့် အရှေ့ဘက်အာရုံခံနေရာသည် ဘုရားဖူးလာသောပုဂ္ဂိုလ်များအတွက် ဘုရားအာရုံယူဝတ်ပြု၍ကောင်းသောဌာနတစ်ခုအဖြစ်သို့ ရောက်ရှိခဲ့လေသည်။*၃

အရှင်ဉာဏသည် ရွှေစည်းခုံဘုရားနှင့် မနီးမဝေးမှာပင်တည်ရှိသော ဆုတောင်းပြည့်ဘုရားကြီးသို့လည်းသွားရောက်ပြီး နေ့စဉ်တံမြက်လှည်းကာ စေတီယင်္ဂဏဝတ်ကိုပြုတော်မူခဲ့ပါသည်။

## စိုင်ပြင်ရွာသို့ကြွတော်မူခြင်း

အရှင်ဉာဏသည် မုံရွာမြို့ ရွှေစည်းခုံတိုက်၌သီတင်းသုံးနေတော်မူစဉ် ဇာတိစိုင်ပြင်ရွာမှ အပင့်လာသည့်အတွက် နှစ်ပေါင်း ၁၇-နှစ်ခန့်ကင်းကွာနေသော မိမိ၏ဇာတိမွေးရပ်မြေသို့ ကြွတော်မူခဲ့ပါသည်။ သို့ကြွတော်မူရာတွင် စာသင်သားဘဝကကဲ့သို့ အရာတော်မြို့နယ်ရှိ ကျေးရွာများကိုဖြတ်၍ စိုင်ပြင်သို့ကြွခြင်းမျိုးမဟုတ်ဘဲ၊ အင်္ဂလိပ်အစိုးရက လမ်းများဖောက်လုပ်နေပြီဖြစ်၍ မုံရွာမှ အလုံမြို့၊ အလုံမှ ဘုတလင်မြို့-စသည်ဖြင့် မြို့ရွာအစဉ်အတိုင်း အကြားအကြားရှိ ရွာကြီးရွာငယ်အသွယ်သွယ်တို့ကိုဖြတ်ကျော်ကာ စိုင်ပြင်ရွာသို့ကြွတော်မူခဲ့ခြင်းဖြစ်သည်။

---

*၁ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၂၇။)

*၂ လယ်တီဆရာတော်ဘုရားကြီးက 'မိမိသည် မုံရွာမြို့ ရွှေစည်းခုံဘုရားကြီးတွင် တံမြက်လှည်းခြင်း၊ ရေလှူခြင်းအစရှိသော စေတီယင်္ဂဏဝတ်တို့ကို ၁၂၄၄-ခုနှစ်၊ တပို့တွဲလပြည့်နေ့ (အေဒီ ၂၂၊ ဇန်နဝါရီလ၊ ၁၈၈၃)မှစ၍ဆောင်ရွက်တော်မူခဲ့သည်'ဟု မင်းလှမြို့၌ မန်လည်ဆရာတော်ကြီးအား ၁၂၈၁-ခုနှစ်၊ တပို့တွဲလဆုတ် ၁၁-ရက် (အေဒီ ၁၄၊ ဖေဖော်ဝါရီလ၊ ၁၉၂၀)က လျှောက်ထားခဲ့ပါသည်။ လယ်တီတရားသတင်းစာ။ တတိယတွဲ၊ အမှတ်-၃၂။ ၁၂၉၀-ပြည့်နှစ်၊ တပို့တွဲလထုတ်။ (စာမျက်နှာ-၄)။

*၃ လယ်တီဆရာတော်ဘုရားကြီးသုတ်သင်ရှင်းလင်းခဲ့သော ရွှေစည်းခုံဘုရားကြီးအရှေ့ဘက် အာရုံခံနေရာတွင် ၁၂၇၂-ခုနှစ်၊ ဝါခေါင်လဆုတ် ၈-ရက် (အေဒီ ၂၈၊ ဩဂုတ်လ၊ ၁၉၁၀)နေ့ လေ့ကျူးအပိုင် ဆန်တန်းရပ် ဘုရားဒကာကုန်သည်ကြီး ဦးလှ-ဒေါ်မင်းပေါ်တို့မိသားစုက မဟာစိတြာရာမအုတ်တိုက်ကြီးကိုတည်ဆောက်ပြီး ကျောက်သားဆင်းတုတော်ကြီးတစ်ဆူကိုပါ ပူဇော်ခဲ့ကြ၏။ ဤသို့ အုတ်တိုက်တည်ဆောက်ရခြင်းအကြောင်းကို မှတ်တမ်းတင်ကျောက်စာထွင်းထုထားခဲ့ပါသည်။ ထိုကျောက်စာတွင် လယ်တီဆရာတော်ကြီးပြုပြင်တော်မူခဲ့ပုံအကြောင်း ထည့်သွင်းဖော်ပြရေးထိုးထားပါသည်။ နောက်ဆက်တွဲ(၅)တွင်ရှုပါ။



လယ်တီဆရာတော်ကြီး မုံရွာမြို့ရောက်၍ ရှေးဦးသီတင်းသုံးတော်မူရာရွှေစည်းခုံကျောင်းတိုက်





ရွှေစည်းခုံတိုက်အတွင်း လယ်တီဆရာတော်ကြီး၏သီတင်းသုံးတော်မူခဲ့သောကျောင်းတည်ရှိရာဌာန





ရွှေစည်းခုံဘုရားရင်ပြင်တော်တွင် လယ်တီဆရာတော်ကြီး သန့်ရှင်းပြုပြင်ခဲ့သောနေရာနှင့်ကျောက်စာ

စိုင်ပြင်ရွာသို့ အရှင်ဉာဏရောက်တော်မူသောအခါ ခမည်းတော်နှင့်ညီတော်များ၊ ဆွေမျိုးမိတ်သင်္ဂဟများ၊ ဆရာသမားတို့က ရွှေမြို့တော်ကြီးတွင် ကျမ်းဂန်တတ်ပထမစာချဘုန်းကြီးဖြစ်လာသည့်အတွက် ဝမ်းမြောက်ဝမ်းသာဖြစ်ကြသော်လည်း အရှင်ဉာဏမှာမူ သက်တော်ရွယ်တော်ရ၍ ထေရ်အရွယ်သို့ရောက်ကာ သံဝေဂတရားလည်းအတော်ကြီးရနေပြီဖြစ်ရကား ကိုယ့်တရားနှင့်ကိုယ် ချမ်းမြေ့စွာနေထိုင်ရေးကိုသာ တောင့်တတော်မူလျက်ရှိနေလေသည်။

အရှင်ဉာဏသည် စိုင်ပြင်ရွာ၌သီတင်းသုံးတော်မူစဉ်အတွင်း ဆွေမျိုးများကျောင်းသို့လာလွန်းသောကြောင့် ရွာနှင့်တစ်တိုင်ဝက်(၂-မိုင်ခန့်)အလှမ်းကွာဝေးသော ရွှေတောင်မင်းကျင်းအရပ်သို့ သွားရောက်နေတော်မူခဲ့လေသည်။*၁ ထိုရွှေတောင်မင်းကျင်းအရပ်မှာ အရှင်ဉာဏငယ်စဉ်ကန္တာရကျောင်းခဲ့သောအရပ်ဖြစ်၏။ အရှင်ဉာဏသည် စိုင်ပြင်ဒေသတစ်ဝိုက်ရှိ တောတောင်ရှိုမြောင်တို့ကို တောရဆောက်တည်ရန် အကဲခတ်ကြည့်ရှုတော်မူခဲ့သည်။

ရဟန်းတို့မည်သည်ကား ဘုရားသားတော်များပီပီ ဘုရားရှင်ပေးထားသော ကျောင်း,သင်္ကန်း,ဆွမ်း,ဆေးစသောပစ္စည်းလေးပါးကို နိစ္စထာဝရသုံးဆောင်မှီဝဲနေကြရ၏။ ထိုသို့ ပစ္စည်းလေးပါးကို မငြိုမငြင်သုံးဆောင်မှီဝဲရသည့်အတွက် ဘုရားရှင်၏ကျေးဇူးကို ပြန်လည်ဆပ်ရန်လိုပေ၏။ ကျေးဇူးဆပ်ရာတွင်လည်း ရဟန်းကိစ္စဖြစ်သော ပရိယတ်ဓုရနှင့်ပဋိပတ်ဓုရ ဤတာဝန်ဓုရနှစ်ရပ်ကို ထမ်းဆောင်ပြီးဆပ်ခြင်းမှတပါး အခြားနည်းမရှိ။ အရှင်ဉာဏသည် ပရိယတ်အနေဖြင့်ကား နှစ်ပေါင်းများစွာ စာသင်ပို့ချခြင်းဖြင့် ပရိယတ်ဓုရနှင့် ကျေးဇူးဆပ်ဖူးလှပေပြီ။ ပဋိပတ်ဘက်ကမူကား မဆပ်ဖြစ်သေးပေ။ သို့ပါ၍ ပဋိပတ်ဓုရကျင့်သုံးပြီး ဘဘုရား၏ကျေးဇူးကိုဆပ်ရန်အလို့ငှာ သင့်တော်လျောက်ပတ်သောနေရာ၊ လူသူကင်းဆိတ်သောနေရာဌာနတို့ကို အရှင်ဉာဏ ရှာဖွေတော်မူခဲ့ပါသည်။

စိုင်ပြင်ရွာရှိမိဘဆွေမျိုးတို့က အရှင်ဉာဏကို စိုင်ပြင်ရွာမှာ တစ်ဝါတစ်ရှည်သီတင်းသုံးစေလိုကြသည်။ ဆရာသမားတို့ကလည်း အရှင်ဉာဏကို ကျောင်းလှူ၍ပေးလိုကြသည်။ ကျောင်းသစ်ကိုအလိုရှိပါက ဆောက်လှူလိုသောကျောင်းဒကာလည်းပေါ်ထွက်ခဲ့သည်။ သို့ပါသော်မြို့ကျောင်းဖြစ်စေ ရွာကျောင်းဖြစ်စေ အရှင်ဉာဏအဖို့မှာ အလိုမရှိတော့ပြီ။ မြို့ရွာနှင့်ဝေးကွာသောတောတောင်ရိပ်၌သာခိုမှီးနေလိုသော နေက္ခမ္မဆန္ဒတို့ကပြင်းပြတော်မူလျက်ရှိရကား ကျောင်းဟူသောအနှောင်အဖွဲ့မှရုန်းထွက်နိုင်ရန် သန္နိဋ္ဌာန်ချထားပြီးဖြစ်လေသည်။ သက္ကရာဇ်-၁၂၄၄ (အေဒီ ၁၈၈၃-ခုနှစ်၊ ဧပြီလ)အကုန် သက္ကရာဇ်-၁၂၄၅-ခုနှစ်အကူးတွင် အရှင်ဉာဏသည် စိုင်ပြင်ရွာမှ မုံရွာမြို့သို့ ပြန်ကြွတော်မူခဲ့ပါသည်။

## ဒေါနတောင် လောကမာရဇိန်တောင်ကုန်းဘုရား

အရှင်ဉာဏ မုံရွာမြို့သို့ပြန်ရောကတော်မူသောအခါ ရွှေစည်းခုံတိုက်မှာပင် ပို့ချလက်စစာဝါတို့ကို ပို့ချပေးတော်မူပါသည်။ စာလိုက်သံဃာ တစ်နေ့တခြားတိုး၍များလာ၏။ စလင်းဆရာတော်

*၁ ထိုနေရာ၌ ရေးက ရေအလွန်ရှားခဲ့သည်။ လယ်တီဆရာတော်ကြီးလာရောက်၍ တရားအားထုတ်ပြီးချိန်မှစ၍ ထိုနေရာတွင် နှစ်တောင်ခန့်တူးရုံမျှဖြင့် ရေရခဲ့သည်။ ဆရာစိုး၏ လယ်တီဆရာတော်ကြီး၏ အတ္ထုပ္ပတ္တိအကျဉ်းချုပ်။(စာမျက်နှာ-၁၅)



လယ်တီဆရာတော်ကြီး မုံရွာမြို့၌ရှေးဦးဝါကပ်ရာ လောကမာရဇိန်တောင်ကုန်းဘုရား





လောကမာရဇိန်တောင်ကုန်းစေတီတော်နှင့် ဆင်းတုတော်

ကြီးထံမှစေလွှတ်သောကြောင့် စလင်းမှသံဃာတော်များလည်း မုံရွာသို့ရောက်လာကြသည်။ ထိုစဉ်အခါက မုံရွာမြို့ပေါ်၌ စာလိုက်သံဃာအများဆုံးစာဝါသည် အရှင်ဉာဏစာဝါဖြစ်သည်ဟု ဆိုကြ၏။ တစ်နေ့ စာသုံးဝါချတော်မူ၏။ စာဝါနားသောအချိန်တွင် ရွှေစည်းခုံဘုရားနှင့် ဆုတောင်းပြည့်ဘုရားသို့လည်းကြွတော်မူ၍ စေတိယင်္ဂဏဝတ်ကို ဝတ်မပျက်ဆောင်ရွက်တော်မူသည်။

ဤသို့ ဗုဒ္ဓဝေယျာဝစ္စနှင့် စာဝါဟူသောကိစ္စနှစ်ပါးတို့ဖြင့် အချိန်ကုန်လွန်နေသော အရှင်ဉာဏသည် တစ်နေ့သော် စာဝါနားချိန်၌ မုံရွာမြို့မြောက်ဘက်အရပ်ရှိ လောကမာရဇိန်ဘုရားအနီးသို့ရောက်ရှိသွားခဲ့သည်။ ထိုအရပ်တွင် အင်းကြီးတစ်အင်းရှိပြီး ထိုအင်း၏အနီး တောင်ကုန်းကလေးတစ်ခုတွင် လောကမာရဇိန်ဘွဲ့အမည်ရှိသော စေတီကလေးတစ်ဆူတည်ရှိ၏။*၁ ထိုစေတီ၏အနီး၌ အဓိကရဉ္စောင်ပင်ကြီးတစ်ပင် ပေါက်ရောက်လျက်ရှိ၏။

အရှင်ဉာဏက လောကမာရဇိန်တောင်ကုန်းဘုရားနေရာသည် မုံရွာနှင့်မနီးလွန်းမဝေးလွန်းအရပ်ဖြစ်ပြီး သစ်ပင်ဝါးပင်တို့ဖြင့်ပြည့်နှက်ကာ အထူးဆိတ်ငြိမ်သည့်ဌာနဖြစ်ကြောင်းတွေ့ရလေသည်။ လူသူလေးပါးအသွားအလာမတွေ့ရသည့်အတွက် ဤနေရာမှာနေ၍ တရားအားထုတ်ရသော် သင့်ရာ၏ဟုဆုံးဖြတ်တော်မူခဲ့လေသည်။ ထိုအချိန်မှစ၍ အရှင်ဉာဏသည် လောကမာရဇိန်တောင်ကုန်းဘုရားအနီးရှိ ဉောင်ပင်ကြီးအောက်သို့ မကြာမကြာကြွရောက်ခဲ့ပြီး တရားအားထုတ်နေတော်မူခဲ့ပါသည်။

## အဋ္ဌာရသမဝါဆိုတော်မူခြင်း

သက္ကရာဇ် ၁၂၄၅–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၈၃–ခုနှစ်၊ ဇူလိုင်လ)နီးသောအခါ ရွှေစည်းခုံတိုက်ဆရာတော်က အရှင်ဉာဏကို မိမိကျောင်းတိုက်မှာဝါဆိုပါရန် အမိန့်ရှိတော်မူသော်၊ အရှင်ဉာဏက မိမိနေ့စဉ်တရားအားထုတ်နေကြ တောင်ကုန်းဘုရားအနီးမှာပင်ဝါဆိုရန် အစီအစဉ်ထားကြောင်း လျှောက်ထားခဲ့ပါသည်။

ဤသို့ တောင်ကုန်းဘုရားအနီး၌ အရှင်ဉာဏဝါဆိုတော့မည်–ဟူသောသတင်းကို ကြားသိကြကုန်သော တပည့်ဒကာအပေါင်းတို့က အရှင်ဉာဏသီတင်းသုံးရန် ကပ်မိုးကပ်ကာဝါးကျောင်းကလေးတစ်ခုကို စုပေါင်း၍စီမံလိုက်ကြ၏။ အရှင်ဉာဏသည် ထိုဝါးကျောင်းကလေးမှာပင် (၁၈)ကြိမ်မြောက် အဋ္ဌာရသမဝါကို ကပ်ဆိုတော်မူခဲ့ပါသည်။

တပည့်သံဃာတို့ကိုမူကား ရွှေစည်းခုံဘုရား၏အရှေ့မြောက်ထောင့် မန်ကျည်းပင်နေရာ*၂၌ ရှိသောကျောင်းကလေးတွင် ဝါကပ်စေပါသည်။ ဤအဋ္ဌာရသမကြိမ်မြောက်ဝါသည်ကား မုံရွာမြို့၌ အရှင်ဉာဏ ရှေးဦးပထမကပ်သောဝါဖြစ်သည်။

---

*၁ လောကမာရဇိန်ဘုရားသည် ယခု မုံရွာမြို့ ဒေါနခြံရပ် လယ်တီလမ်းမအနီး၌တည်ရှိသည်။

*၂ ထိုကျောင်းကလေးသည် ယခုအခါမရှိတော့ပြီဖြစ်သော်လည်း ထိုကျောင်းကလေးတည်ရှိခဲ့သောနေရာဌာနသည် ယခု မုံရွာမြို့ ရွှေစည်းခုံဘုရားဝင်းအတွင်းရှိသိမ်အနီး၊ မြို့မဂါတ်ကျောင်း၏အရှေ့ဘက် အောင်ဆုပန်ကျောင်းနှင့် နိုသန်းကျောင်းတို့အကြားတွင်ဖြစ်ကြောင်းသိရသည်။





လယ်တီဆရာတော်သည် မုံရွာမြို့ဆုတောင်းပြည့်ဘုရားကြီးအတွင်း၌ သီတင်းသုံးတော်မူခဲ့ရာဌာန
(ယခုဝိပဿနာဓမ္မာရုံနှင့်ဗောဓိပင်အနီးတွင်ဖြစ်သည်)



မုံရွာမြို့ယွန်းကျောင်းတိုက်ကြီး





မုံရွာမြို့မူလရုပ်စုံအုတ်ကျောင်းနှင့်အသားကျောင်းပုံ

အရှင်ဉာဏသည် တောင်ကုန်းဘုရားအနီး ဝါဆိုကျောင်း၌ ဝါကပ်နေစဉ်အတွင်း နေ့စဉ် လေ့ကူးအပိုင်းသို့ဆွမ်းခံဝင်တော်မူပါသည်။ ပြုမြဲဖြစ်သော ရွှေစည်းခုံဘုရားနှင့်ဆုတောင်းပြည့် ဘုရား၏စေတီယင်္ဂဏဝတ်တို့ကိုလည်း မပျက်မကွက်ပြုတော်မူခဲ့ပြီး၊ နေ့အခါ ရွှေစည်းခုံတိုက်သို့ ကြွပြီး စာဝါများကိုလည်း ပို့ချပေးတော်မူခဲ့ပါသည်။

အရှင်ဉာဏ၏ နေ့စဉ်ရွက်ဆောင်နေသော သာသနာ့ဝန်ဆောင်မှုလုပ်ငန်းများကိုတွေ့မြင် ကြရသော လေ့ကူးရပ်နှင့်မုံရွာရပ်တို့မှ ဒကာ,ဒကာမကြီးများက အထူးကြည်ညိုကြကာ အရှင် ဉာဏ ဝါကပ်ရာ တောင်ကုန်းကျောင်းကလေးသို့လိုက်လာကြပြီး ကျောင်းဆောက်လှူလိုပါ ကြောင်း လျှောက်ထားခဲ့ကြ၏။

ထိုစဉ်အခါက အရှင်ဉာဏကသာ အလိုရှိခဲ့ပါလျှင် ကျောင်းလုံးပြည့်ရွှေချထားသော ရွှေကျောင်းကြီးမျိုးဆောက်လှူမည့်ကျောင်းဒကာပင် အသင့်ရှိနေပြီဟုဆိုကြသည်။ အရှင်ဉာဏ၏ စက္ခုတော်အစုံ၌ ပေ,ပုရပိုက်စာပေတို့အပြည့်ရှိနေသည့် ခရေပင်ကျောင်း ကလေးကို မီးတဟုန်း ဟုန်း တောက်လောင်ဝါးမျိုနေပုံကို ပယ်ဖျောက်၍မရသေးသည့်အတွက် ကျောင်းကြီးကျောင်း ကောင်းဆောက်လှူလိုသူတို့၏ဆန္ဒကို ငြင်းပယ်တော်မူပြီး ဝါဆိုဆဲဖြစ်သော ထိုတဲကျောင်းကလေး မှာပင် တရားဘာဝနာအလုပ်ဖြင့် ချမ်းမြေ့စွာနေတော်မူခဲ့လေသည်။

အရှင်ဉာဏထံ ကျောင်းလှူဒါန်းလို၍လာကြသောပုဂ္ဂိုလ်တို့တွင် ဗိုလ်ရဲလှ–ဟုအမည်ရှိသော ဒကာတစ်ဦးပါရှိလေသည်။[*၁] အရှင်ဉာဏအား ဒုတိယကျောင်းအပ်သော ပုဂ္ဂိုလ်မှာ မုံရွာရိုးရာ သူကြီးဦးအိုဖြစ်ပြီး ဦးအိုက မိမိဆောက်လုပ်သောရပ်စုံကျောင်းကိုလှူဒါန်းလိုခြင်းဖြစ်သည်။[*၂] တတိယကျောင်းလှူသောပုဂ္ဂိုလ်မှာ လေ့ကူးရပ်နေ ကုန်သည်ကြီးဦးဝိုင်းဖြစ်သည်။

---

*၁ ရှေးပြောစကားအရ ဗိုလ်ရဲလှသည် သီပေါမင်းလက်ထက်က မြန်မာတပ်ဗိုလ်တစ်ဦးဖြစ်ပြီး၊ မုံရွာတွင် တိုင်ပေါင်း ၂၁၂–တိုင်ပါရှိသော ယွန်းဆောင်ပုံအတိုင်း အိမ်ကြီးတစ်ဆောင်ဆောက်လုပ်ပြီးမှ တိုင်းရေးပြည်ရာအခြေမလှ၍ ပြေးရှောင်နေရသူဖြစ်သည်။ မိမိ၏ယွန်းဆောင်ပုံ အိမ်ကြီးကို အရှင်ဉာဏအား ကျောင်းအဖြစ်လက်ခံပါရန် လာရောက်လှူဒါန်းခြင်း ဖြစ်၏။ ထို့နောက် ဗိုလ်ရဲလှသည် သီပေါမင်းနန်းကျ၍ ခေတ်ပျက်သောအခါ မိမိ၏သားကလေးကို အရှင်ဉာဏထံ အပ်နှံခဲ့၏။ အရှင်ဉာဏက ထိုကလေးကို အရှင်တိဿဟူသောဘွဲ့အမည်ဖြင့် ကိုရင်ဝတ်ပေးထား၏။ ဗိုလ်ရဲလှလှူဒါန်း ခဲ့သော ယွန်းကျောင်းမှာယခု မုံရွာမြို့လယ်ရှိ မာလာရာမယွန်းကျောင်းပင်ဖြစ်သည်။ ယွန်းကျောင်းသည် ၃.၇၇ဖ ကေကျယ်ဝန်းပြီး မူလဂရံ၌ 'ရွှန်းကျောင်း' ဟုရေးထားသည်။ ဗိုလ်ရဲလှ၏သား ဦးတိဿသည် နောင်အခါလူဘဝသို့ ရောက်၍ ဦးထွန်းလှဟုထင်ရှား၏။ ဤအကြောင်းကို နဝမလယ်တီဆရာတော်အရှင်ကေလာသက (၁၂–၁၁–၁၉၉၇)နေ့ အမိန့်ရှိပါသည်။ စာချုပ်စာတမ်းများအရ ထိုယွန်းကျောင်းကို ဆံရှည်ကိုယ်တော်ဦးသုဇာတဆိုသူပုဂ္ဂိုလ်က လယ်တီ ဆရာတော်ဘုရားကြီးအား၊ လယ်တီဆရာတော်ကြီးကတစ်ဖန် ဦးတိဿ (နောင် ဦးထွန်းလှ)အား၊ ဦးထွန်းလှကတစ်ဖန် ဦးမာလာအား အဆင့်ဆင့်လွှဲခဲ့ကြသည်။ သို့ပါသော် ခင်မွန်သုံးဂုံးချုပ်ဝိနည်းဖြတ်ထုံးကျမ်း(စာမျက်နှာ–၂၁၅)၌ မုံရွာမြို့ ငွေးကြီးရွာ ရှင်မေဓာအပေါ်စွဲတင်သည့် ပဌမမူဝိနိစ္ဆယတွင် '၁၂၃၆–ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် ၁၂–ရက် (အေဒီ– ၂၀၊ နိုဝင်ဘာလ၊ ၁၈၇၄) ခုနှစ် မုံရွာ လေ့ကူး ရွှေစည်းခုံဘုရားပရိဝုဏ်အတွင်း အနောက်ဘက်စောင်းတန်း ဇရပ်တည်း ကျောင်း၌ ယွန်းကျောင်းတိုက် ဘုန်းတော်ကြီးဦးပညာသာမိ၊ ၎င်းကျောင်းတိုက် ဦးမာလာ–စသောထေရ်ကြီးဝါကြီးများ ရှေ့တွင် ဆုံးဖြတ်အပ်သည်' ဟု ဖော်ပြထားရာ၊ ထို သက္ကရာဇ်–၁၂၃၆ (အေဒီ–၁၈၇၄)ခုနှစ်ကလည်း ယွန်းကျောင်းအမည်ဖြင့် အခြားကျောင်းတစ်ကျောင်း တည်ရှိခဲ့ပုံရ၏။

*၂ မုံရွာမြို့တွင် ရပ်ရုံကျောင်းသည် မုံရွာမြို့ ဆုတောင်းပြည့်ဘုရားကြီး၏ အနီး၌ရှိ၏။ ဤအချက်ကို ရန်ကုန်မြို့ နာဂလိုဏ်ဂူ ကျောင်းတိုက် တိုက်အုပ်ဘုန်းကြီးဦးပဏ္ဍိတ၏ (၁၈–၃–၁၉၈၇)နေ့ မိန့်ဆိုတော်မူခဲ့ပါသည်။

ကျောင်းဒကာကြီးသင်္ဂြိုဟ်ဦးဝိုင်း

မုံရွာမြို့ပေါ်၌ ပရမတ်,သင်္ဂြိုဟ်လေ့လာလိုက်စားကြသောပုဂ္ဂိုလ်များတွင် လေ့ကူးရပ်နေ ကုန်သည်ကြီးဦးဝိုင်းသည်လည်း တစ်ဦးအပါအဝင်ဖြစ်၍ ဦးဝိုင်းကို သင်္ဂြိုဟ်ဦးဝိုင်း, ပရမတ် ဦးဝိုင်းဟု အရပ်ကခေါ်ကြသည်။ သင်္ဂြိုဟ်ဦးဝိုင်းသည် အဘိဓမ္မာသင်္ဂြိုဟ်ကို ခဲခဲကတ်ကတ် ပြောနိုင်ဆိုနိုင် ဆွေးနွေးနိုင်သောကြောင့် တော်ရုံပုဂ္ဂိုလ်သည် သူ့ကိုယှဉ်၍ဆွေးနွေးနိုင်မည် မဟုတ်ဟု မိမိကိုယ်ကို ထင်တစ်လုံးရှိနေသူဖြစ်သည်။

သင်္ဂြိုဟ်ဦးဝိုင်းသည် အရှင်ဉာဏ မုံရွာသို့ရောက်ရှိပြီး အဘိဓမ္မာဆိုင်ရာ၌နာမည်ကျော် နေသဖြင့် ရွှေစည်းခုံတိုက်သို့ရောက်ရှိလာကာ အရှင်ဉာဏအား အဘိဓမ္မာသင်္ဂြိုဟ်ဆိုင်ရာအချက် အလက်တို့ကို မေးမြန်းလျှောက်ထားခဲ့သည်။ အရှင်ဉာဏသည် နှစ်ပေါင်းများစွာကပင် ဋီကာ ကျော်,မဏိမဉ္ဇူသာစသည့် သင်္ဂြိုဟ်ကျမ်းအဖွင့်ဋီကာကြီးများ၌ပါရှိသော အချုတ်အချော် အတိမ်း အပါးများကို စုဆောင်းနေတော်မူနေခဲ့သောပုဂ္ဂိုလ်ဖြစ်ရာ အရှင်ဉာဏ၏ အဘိဓမ္မာဝေဖန်သုံးသပ် ချက်များကိုကြားနာရသောအခါ ဦးဝိုင်းအဖို့ ထိုမျှလေးနက်ခက်ခဲလှသော အဘိဓမ္မာစကားများကို မလိုက်နိုင်တော့သည့်အတွက် ဘုန်းတော်ကြီးအရှင်ဉာဏထံ တပည့်ခံခဲ့ရလေသည်။ သင်္ဂြိုဟ်ဦးဝိုင်း သည် အရှင်ဉာဏဟောကြားသော အဘိဓမ္မာသဘောတရားတို့ကိုကြားနာရသောအခါ အရှင် ဉာဏ၏ အရည်အသွေးကိုသိမြင်ပြီး အလွန်ကြည်ညိုလေးမြတ်ကာ သံသရာအတွက် အားကိုး အားထားပြုလောက်သော ဆရာပါတကားဟု စတုပစ္စယဒါယကာအဖြစ်ခံယူပြီး ရိုရိုသေသေ လေးလေးမြတ်မြတ်ဆည်းကပ်ခဲ့ပါသည်။

သက္ကရာဇ် ၁၂၄၅-ခုနှစ်၊ ဝါတွင်း (အေဒီ ၁၈၈၃-ခုနှစ်၊ ဇူလိုင်လ)၌ အရှင်ဉာဏသည် လောကမာရဇိန်တောင်ကုန်းဘုရားအရှေ့ဘက် ဝါဆိုကျောင်းကလေး၌ ဝါကပ်ကြောင်းကို သင်္ဂြိုဟ်ဦးဝိုင်း ကြားသိရလျှင် 'ဘုန်းတော်ကြီးအတွက် ကျောင်းတစ်ဆောင်ဆောက်လှူဖို့သင့်ပြီ' ဟု သဒ္ဓါတရားဖြစ်ကာ လေ့ကူးတောင်ပိုင်း မရိုးကုန်းရပ်ကွက်ရှိ စစ်ကဲကြီးဦးရိုက်၏အိမ်ဝင်း နေရာကိုဝယ်ယူပြီး ထိုမြေကွက်ပေါ်၌ ပထမတန်းသစ်အကောင်းများရွေးချယ်ပြီး ဇေတဝန်ဆောင်ပုံ ကျောင်းတစ်ဆောင်ဆောက်လုပ်ခဲ့သည်။[*၁]

သင်္ဂြိုဟ်ဦးဝိုင်းကျောင်း

ဇေတဝန်ဆောင်ဆိုသည်မှာ- 'ဇေတဝန်မျိုး၊ အမိုးသုံးထပ်၊ မပျပ်မစောက်၊ ထုတ်လျှောက် ရနယ်'ဟူသောစာဆိုနှင့်အညီ အမိုးသုံးထပ် လယ်ပေါ်နှစ်ဆင့်နှင့် ဆောက်လုပ်ထားခြင်းဖြစ်သည်။ ထိုသို့ သုံးထပ်လယ်ပေါ်နှင့်ဆောက်လုပ်လျှင် ကျောင်းဖြစ်စေ၊ အိမ်တော်ဖြစ်စေ၊ နန်းတော်ဖြစ်စေ

---

*၁ ရွှေမုံတင်၏ လယ်တီနေမင်းကျမ်း။ (စာမျက်နှာ-၆၄)။ သင်္ဂြိုဟ်ဦးဝိုင်းကျောင်းနေရာသည် မုံရွာမြို့ ညောင်တစ်ပင်ရပ်၊ နေဝင်းရပ်ရှင်ရုံဆောက်လုပ်ထားသောနေရာဖြစ်၏။ ဆရာတော်ကြီးသီတင်းသုံးသောနေရာကား ရုပ်ရှင်ပြစက်ထားသော နေရာဟု အဆိုရှိသည်။ ယခုတိုင် ရုပ်ရှင်ပြစက်ထားသောအုတ်တိုက်ငယ် ကြွင်းကျန်ရှိသေး၏။ ဤအချက်များကို နဝမလယ်တီဆရာတော်ကြီးအရှင်ဇကလာသ (၂၄-၁၀-၁၉၉၇)နေ့ မိန့်ကြားတော်မူပါသည်။



သင်္ဂြိုဟ်ဦးဝိုင်းကျောင်းကိုဖျက်ပြီးယင်းကျောင်း၏အသားများဖြင့်မူလပုံစံအတိုင်းဆောက်လုပ်ထားသော
ချောင်းဦးမြို့နယ် ခင်မွန်ရွာ ပဲတောင်းရပ်ရှိ မဟာဇောတိကာရာမကျောင်း





သင်္ဂြိုဟ်ဦးဝိုင်းကျောင်းတည်ရှိခဲ့သောနေရာ (နေဝင်းရုပ်ရှင်ရုံနေရာဖြစ်သည်။)



သင်္ဂြိုဟ်ဦးဝိုင်း
ကျောင်း၌
လယ်တီဆရာတော်ကြီး
သီတင်းသုံးတော်မူစဉ်က
အသုံးပြုခဲ့သောရေတွင်း

ဇေတဝန်ဆောင်ခေါ်လေ့ရှိသည်။*[၁] ထိုဇေတဝန်ဆောင်သည် မဇ္ဈိမဒေသ၌ရှိသော မြတ်စွာဘုရား သီတင်းသုံးတော်မူရာ ဇေတဝန်ကျောင်းတော်နှင့်ပုံသဏ္ဍာန်တူသော အဆောက်အအုံမျိုးဟု ဆိုပေသည်။ တစ်နည်းအားဖြင့် ဤအဆောင်၌ အရေးအရာကြီးများအတွက် စည်းဝေးတိုင်ပင်၍ ရန်အပေါင်းတို့ကိုအောင်စေနိုင်ခြင်း၊ 'ဇိတဝါ'ဟူသော နိမိတ်ကိုအစွဲပြု၍လည်း ဇေတဝန်ဆောင် ခေါ်ကြောင်း ရွှေဘုံနိဒါန်းတွင်ပြဆိုထားပါသည်။*[၂]

ဒါယကာကြီး ဦးဝိုင်းဆောက်လှူသောကျောင်း၏ပတ်လည် လေးဘက်လေးတန်၌ ကဲလားများတပ်ဆင်ကာ ပွတ်လုံးများပါရှိသည်။ ထိုစဉ်အခါက လေ့ကူးရပ်သည် ချင်းတွင်း မြစ်ရေဝင်သောအရပ်ဖြစ်၍ ကျောင်းအောက်အခြေ၌တိုင်များကို မြင့်မားသောသစ်လုံးကြီး များဖြင့်စိုက်ထားပြီး တစ်ကျောင်းလုံးတွင် တိုင်ပေါင်း ၁၅၃–တိုင်ပါရှိသည်ဟု အမှတ်အသားရှိ၏။*[၃] ကျောင်းဝင်းအတွင်း၌ ရေတွင်းတစ်တွင်းလည်း တူးထားသည်။*[၄] သင်္ဂြိုဟ်ဦးဝိုင်းသည် အရှင်ဉာဏ အား မိမိဆောက်ထားသောကျောင်းကို မိမိစိတ်တိုင်းကျစီမံပြီးသောအခါ အလှူခံယူတော် မူပါရန် ရှိသေစွာလျှောက်ထားခဲ့သည်။

အရှင်ဉာဏသည် ကျောင်းပိမည်စိုးသောကြောင့် ဤလောကမာရဇိန်တောင်ကုန်းအနီး၌ ဝါးတဲကျောင်းကလေးဖြင့် နေထိုင်ခြင်းဖြစ်သော်လည်း စင်စစ် ထိုနေရာသည် ဥတုသပ္ပါယမဖြစ်ပေ။ ထိုဝါးဆိုကျောင်းကလေး၏မြောက်ဘက်တွင်တည်ရှိသော အင်းမှတိုက်ခတ်သောလေသည် အနီးဝန်းကျင်၌နေထိုင်သူများကို အဖျားရောဂါရနိုင်လောက်အောင် ပြင်းထန်အေးမြလှသည်။ ဤအရပ်၌ကြာမြင့်စွာနေထိုင်ရန်မသင့်။*[၅] ထို့ပြင် ရွှေစည်းခုံကျောင်းတိုက်၌သီတင်းသုံးနေရသော အရှင်ဉာဏ၏တပည့်ပရိသတ်သံဃာများ၏ နေရေးထိုင်ရေးမပြည့်စုံမှုရှိသည်လည်းတစ်ကြောင်း၊ သင်္ဂြိုဟ်ဦးဝိုင်း၏စေတနာကိုလည်း မဖျက်စီးသင့်သည်လည်းတစ်ကြောင်း ထိုထိုအကြောင်း တို့ကြောင့် လေ့ကူးအရပ်ရှိ သင်္ဂြိုဟ်ဦးဝိုင်း၏ကျောင်းကို ဘုန်းတော်ကြီးအရှင်ဉာဏ လက်ခံတော် မူခဲ့ရသည်။*[၆]

---

*၁ အမိုးသုံးထပ်မှမဟုတ်၊ လေးထပ်လည်ပေါ်ဆိုလျှင်လည်း ဇေတဝန်ဆောင်ခေါ်သည်။ ငါးထပ်အထိမရှိ၊ မဆောက်ကြ ပါ– ဦးမျိုးမြင့်စိန်နှင့်အပေါင်းပါများ၏ ကုန်းဘောင်ခေတ်နှောင်းဘုန်းကြီးကျောင်းများ(စာတန်း)။ တက္ကသိုလ်ပညာ ပဒေသာစာစောင်။ အတွဲ–၅၊ အပိုင်း–၃။ ၁၉၇၀–ပြည့်နှစ်။ (စာမျက်နှာ–၂၈၇)။

*၂ ဇေယသင်္ခယာ၏ ရွှေဘုံနိဒါန်း။ ၁၉၆၃–ခုနှစ်။ (စာမျက်နှာ–၂၉)။

*၃ ထိုညောင်တပင်ရပ်သို့ နှစ်စဉ်မြစ်ရေဝင်ခဲ့သည်မှာ သက္ကရာဇ် ၁၂၅၀–ပြည့်နှစ် (၁၈၈၅–ခုနှစ်) မုံရွာမြို့၌ ပထမအကြိမ် မြူနီစီပါယ် ဖွဲ့စည်းကာ ဆိပ်ကမ်းတာရိုးကြီးတားလိုက်ချိန်အထိဖြစ်သည်။ မုံရွာမြို့ ရာပြည့်မော်ကွန်းမဂ္ဂဇင်း။ ၁၉၈၉– ခုနှစ်။ (စာမျက်နှာ–၆၁)။ သိမီလိုက်သူများက ထိုနေဝင်းရပ်ရှင်ရုံနေရာ ယခင်ဦးဝိုင်းကျောင်း၌ 'တစ်ဖက်လောက်ရှိတဲ့ တိုင်လုံးတွေနဲ့ ဇရပ်ကြီးတွေရှိတယ်'ဟုပြောကြ၏။ မုံရွာမြို့ ရာပြည့်မော်ကွန်းမဂ္ဂဇင်း။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၆၅)။ ထိုတိုင်ပေါင်း ၁၅၃–တိုင်သည် ဆရာတော်ကြီး၏တပည့် ဦးကေတု ကျောင်းဖျက်၍ ခင်မွန်ရွာသို့ယူသွားပြီးလျှင်၊ ခင်မွန်ရွာ ပဲတောင်းရပ် ကျောင်းဆောက်ရာတွင် ယည့်သွင်းသုံးစွဲထားခဲ့သည်။

*၄ ထိုရေတွင်းသည် ယခုတိုင်ရှိသေးသည်။

*၅ ဦးတိုက်ဝမ်း၏ ပထမလယ်တီဆရာတော်ကြီး၏ဝါတော်စဉ်ထေရုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ–၁၁)။

*၆ ရွှေမုံတင်၏ လယ်တီနေမင်းကျမ်း။ (စာမျက်နှာ–၆၄)။

ထိုနှစ်ဝါကျွတ်သောအခါ အရှင်ဉာဏသည် လှေကူးရပ်ရှိ သင်္ဂြိုဟ်ဦးဝိုင်းကျောင်းသို့ ခင်မွန်ရှင်ကေတုနှင့်အတူ သီတင်းသုံးနေတော်မူခဲ့ပါသည်။ ထိုအခါမှစ၍ အရပ်ကထိုကျောင်းကို 'သင်္ဂြိုဟ်ဦးဝိုင်းကျောင်း'၊ ကျောင်းဘုန်းကြီးအရှင်ဉာဏကိုလည်း 'သင်္ဂြိုဟ်ဦးဝိုင်းကျောင်းဘုန်းကြီး' ဟုခေါ်ဆိုခဲ့ကြသည်။ 'ကြံစည်တိုင်းမဖြစ်' ဟူသောစကားအတိုင်းပင် ကျောင်းကန်ကိုကြောက်၍ အလွတ်ရုန်းပြေးခဲ့သော ဘုန်းတော်ကြီးအရှင်ဉာဏသည် ကျောင်းနှင့်ကန်နှင့် ကျောင်းဘုန်းကြီး အဖြစ်သို့ ရောက်ရပြန်လေပြီ။

**သောဘာသေယျရွတ်ဖတ်ပုံ**

ထိုစဉ်ကာလအတွင်း မုံရွာမြို့အရှေ့ဘက် ခရီးတစ်တိုင်ကျော်(၂-မိုင်ခွဲ)ဝေးသော စလုပ်ရွာနှင့်ရှောက်ခါးရွာအကြား သိမ်ကြီးတစ်ခု*[၁] တွင် ဥပသမ္ပဒကံဆောင်ရဟန်းခံပွဲရှိရာ ထိုရဟန်းခံပွဲသို့ သင်္ဂြိုဟ်ဦးဝိုင်းကျောင်းဘုန်းကြီးအရှင်ဉာဏကိုလည်းပင့်ထားသောကြောင့် ကြွတော်မူခဲ့ရသည်။ ရဟန်းခံပွဲတွင် ကြွလာတော်မူကြသော ဆရာတော်သံဃာတော်တို့ ကမ္မဝါဖတ်ခြင်းနှင့် စပ်၍ အာစရိယဝါဒနှင့်တကွ သိဿာနုသိဿအစဉ်အဆက် ဤသို့ဖတ်သင့်, ဤသို့ဖတ်ရန် စသည်ဖြင့် ကမ္မဝါဖတ်နည်းအယူအဆများကို မိန့်ကြားနှီးနှောပြောဆိုတော်မူကြသည်။

ထိုအခါ သင်္ဂြိုဟ်ဦးဝိုင်းကျောင်းဘုန်းကြီးအရှင်ဉာဏကလည်း 'ဆရာတော်တို့ဘုရား၊ မိမိ၏ကျေးဇူးတော်ရှင် မန္တလေးမြို့စံကျောင်းဆရာတော်ကြီးသည် ကမ္မဝါရွတ်ဖတ်သောအခါ ကမ္မဝါစာကိုယ်ပါ သောဘာသေယျ-ကို ဤသို့ဖတ်ပါသည်ဘုရား'*[၂]ဟု မိမိ၏အာစရိယဝါဒကိုလျှောက်ထားလေသည်။*[၃] ရဟန်းခံပွဲသို့ကြွလာသော သံဃာတော်အပေါင်းတို့တွင် သံဘိုဆရာတော်ကြီး*[၄]

*[၁] ထိုစလုပ်ရွာနှင့် ရှောက်ခါးရွာအကြားရှိသိမ်ကို ယခု မုံရွာမြို့ ရှောက်ခါးရွာ မြဝတီရပ်ကွက်၌ရှိသော မဟာကန်ဦးကျောင်းတိုက်အတွင်းရှိ ခဏ္ဍာသိမ်ဟု မှန်းဆပါသည်။

*[၂] စံကျောင်းဆရာတော်ကြီးက 'သောဘာသိယျ'-ဟုဖတ်ကြောင်း အရှင်ဉာဏလျှောက်ထားခဲ့သည်ဟု ဖော်ပြထားပါသည်။ ဦးအောင်၏ဥပမာသင်္ဂဟဝနစနက္ကမကျမ်း၊ဒုတိယတွဲ။ ဖြဟ္မဝတီပုံနှိပ်တိုက်၊ရန်ကုန်မြို့။၁၂၇၆-ခုနှစ်။(စာမျက်နှာ-၁၉၅)။ ကမ္မဝါစာ၌လာသော 'သောဘာသေယျ'ရွတ်ဖတ်ပုံမှာ ရှစ်မျိုးရှိရာ- (၁) အောက်မြစ်သံ=ဘာသေ့ယျ၊ (၂) တသတ်သံ=ဘာသေတ်ယျ၊ (၃) စ-သတ်သံ=ဘာသစ်ယျ၊ (၄) င-သတ်သံ=ဘာသင်ယျ၊ (၅) ညကြီးသတ်သံ= ဘာသည်ယျ၊ (၆) ဝိပရိတ်ဣရသဟူ၍ န-သတ်သံ=ဘာသိန်ယျ၊ (၇) ယ-သတ်သံ=ဘာသယ်ယျ၊ (၈) သံယုတ် ယ-တစ်လုံးဖျောက်၍ ဘာသေယ=ဟူ၍ရှိရာ ဦးအောင်ပြဆိုသော ဘာသိယျကိုကား ဟုတ်,မဟုတ် ဝေခွဲမရနိုင်ပါ။ ရတနာသီခ အရှင်ပဏ္ဍဝ၏ ဥပသမ္ပဒ ကမ္မဝါစာသင်တန်း။သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၈၆-ခုနှစ်။ (စာမျက်နှာ-၆၆)။

*[၃] 'သောဘာသေယျ'နှင့်စပ်၍ လယ်တီဆရာတော်ကြီးက ဧကပဒသံယုဂ်ဖြစ်ခဲ့၍ 'သေ'ကို ရဿသံနှင့်ဆိုရမည်ဟု မှတ်ယူထားပြီးဖြစ်သည်။ အချို့က ဝိသဇ္ဇနီသံထည့်၍ 'သေးယျ'ဟုဖတ်ရာ၊ လယ်တီဆရာတော်ကြီးက မာဂဓဘာသာမှာ ဝိသဇ္ဇနီမရှိဟု ဆိုတော်မူ၏။ ညသတ်သံ, အောက်မြစ်သံနှင့်ဖတ်ခြင်းကိုကား ရဿသံဖြစ်၍ ကံမပျက်မှု မှတ်ယူထားပေသည်။ လယ်တီဆရာတော်ကြီး၏ သာသနဝိသောဓနီ၊ တတိယတွဲ။ ၁၉၅၄-ခုနှစ်။ (စာမျက်နှာ-၃၈)။

*[၄] သံဘိုဆရာတော်ကြီး၏ဘွဲ့မည်သည် အရှင်ဝိစိတ္တဖြစ်ပြီး၊ ဝိစိတ္တာဘိလင်္ကာရကဝိဓဇအတုလာဓိပတိ တိပိဋကဓရမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ရကြောင်း။ သံဘို ဆရာတော်ကြီးမှာ အလုံမြို့အရှေ့ဘက် မလဲသာရွာဇာတိဖြစ်၍ ထိုအချိန်က မလဲသာရွာအနီး ကံသာရွာအနောက်မြောက် သံဘိုတောရ၌သီတင်းသုံးနေပြီး သက်တော်မှာ(၇၀)အရွယ်ဖြစ်ကြောင်း သိရသည်။ ဦးအောင်၏ ဥပမာသင်္ဂဟဝစနက္ကမကျမ်း၊ ပထမအုပ်။ (စာမျက်နှာ-၁၉၆၊ ၁၉၇)။

မုံရွာမြို့အရှေ့ဘက် စလုပ်နှင့်ရောက်ခါးရွာအကြားရှိ မဟာကန်ဦးသိမ်ပုံ



ဘုန်းတော်ကြီးဦးသီလ



မုံရွာမြို့ဆုတောင်းပြည့်ဘုရားကြီး

လည်းပါဝင်တော်မူလေရာ ထိုအရှင်သံဘိုဆရာတော်ကြီးက အရှင်ဉာဏအား ချစ်စနိုးကြည့်စယ သောအားဖြင့် 'မောင်ဉာဏ၊ ယခု ကမ္မဝါစာကိုပြင်၍မဖတ်ခဲ့လျှင် ရဟန်းမဖြစ်ဘဲ ဥပသမ္ပဒကံ ပျက်မည်လော'ဟုမေးပြီး၊ 'မောင်ဉာဏ၊ မင်းရဟန်းခံစဉ်အခါက ငါတို့သည် ကမ္မဝါစာရှိတိုင်းပင် မင်းဆရာနှင့် ငါတို့ သောဘာသေယျ–ဟုဖတ်ခဲ့ကြသည်။ အကယ်၍ ကံပျက်သည်ဆိုပါက မင်းလဲ ပဋ္ဌင်းပြန်၍ခံပေဦးတော့'ဟု ရယ်ရယ်မောမော မိန့်ဆိုတော်မူလေသည်။*၁

## ပိဏ္ဍပါတ်ဆွမ်းခံဝတ်

အရှင်ဉာဏသည် သင်္ဂြိုဟ်ဦးဝိုင်းကျောင်း၌သီတင်းသုံးနေတော်မူစဉ်အခါတွင် လေ့ကျူးရွာ အတွင်းသို့ နေ့စဉ်ဆွမ်းခံကြွတော်မူပါသည်။ အိမ်စဉ်အတိုင်းရပ်ကာ ဆွမ်းခံကြွလာသော ရဟန်းသာမဏေတို့၏ဆွမ်းခံခြင်းကို 'ပိဏ္ဍပါတ်'ဟုခေါ်ပါသည်။ ဤသို့ ပိဏ္ဍပါတ်ဆွမ်းခံဝတ်ရှိသော ရဟန်းသာမဏေအဖို့ ခရောနောင်ပါ ချမ်းသာသုခအပြည့်အဝရနိုင်ပေသည်။ ရဟန်းသာမဏေ တို့က နေ့စဉ်အိမ်ဝ၌ဆွမ်းရပ်တော်မူကြခြင်းသည် ဆွမ်းဒကာ,ဒကာမတို့ကို 'ကောင်းမှုတရား များ ပွားများကြကုန်၊ မကောင်းမှုကိုရှောင်ကြဉ်ကြပါကုန်'ဟု နေ့စဉ် အိမ်ဝသို့လာရောက် ဆုံးမသတိပေးနေခြင်းပင်ဖြစ်သည်။

အရှင်ဉာဏသည် ဆွမ်းခံရာမှရရှိသော မွန်မွန်မြတ်မြတ်ဆွမ်းဟင်းစသည်ကို ဘုရားဆွမ်းတော် ကပ်ပြီး ရပ်ရွာအတွင်းရှိသက်ကြီးဝါကြီးဆရာတော်ကြီးများထံသို့ ပေးပို့လှူဒါန်းခဲ့ပါသည်။ မိမိထံ စာသင်လာရောက်ကြသော သောတုဇနသံဃာတော်များကိုလည်း ဆွမ်းကိစ္စပြည့်စုံစေပါသည်။ အရှင်ဉာဏသည် သံဃာတော်များအတွက် ဆွမ်းဝတ်ကိုကြီးစားအားထုတ်တော်မူသည်သာမက ရေဝတ်ကိုလည်း အောက်ပါအတိုင်းထမ်းရွက်တော်မူပါသည်။

စာသင်သားသံဃာတော်များအတွက် သောက်ရေ,သုံးရေ,ချိုးရေတို့ကို ကိုယ်တိုင်ခပ်၍ တည်ထားတော်မူ၏။ ရေဝတ်ကိုတည်ရာ၌ အလွန်ညဥ့်နက်သည့်အခါကာလ၌ပြုခြင်းဖြစ်၍ ထို သောက်သုံးရေတို့ကို ကျောင်းဘုန်းကြီးအရှင်ဉာဏ ခပ်ထားကြောင်း မည်သည့်သံဃာတော်မျှ မသိကြပေ။ နံနက်လင်းလျှင် ကျောက်အိုး,ကျောက်ခွက်တို့၌ ရေပြည့်နေသည်ကိုသာတွေ့ကြ ရသည်။ ဤသို့ တိတ်တဆိတ်လျှို့ဝှက်စွာ ရေဝတ်ပြုရေခပ်ရခြင်းအကြောင်းကို တပည့်ဖြစ်သူ ဦးဝဏ္ဏိတအား မိန့်တော်မူဖူးသည်မှာ–

---

*၁ ဤအဖြစ်အပျက်ကို ဦးအောင်၏ ဥပမာသင်္ဂဟဝစနက္ကမကျမ်း၊ ဒုတိယတွဲ။ ၁၂၇၆–ခုနှစ်။ (စာမျက်နှာ–၁၉၅)တို့တွင်ဖော်ပြ ထား၏။ လယ်တီဦးလှပိုင်၏ ပုခန်းသာသနာဝင်စာအုပ်တွင် 'ဤအဖြစ်အပျက်ကို ဘုရားကြီးဆရာတော်ဦးအာစရ၏ မှတ်တမ်းမှရကြောင်း၊ ထိုဖြစ်ရပ်သည် မန္တလေးမြို့ စံကျောင်းတိုက်ပဋ္ဌင်းခံပွဲတစ်ခုတွင် အရှင်ဉာဏလျှောက်ထားသည်ကို မိုးထိဆရာတော်ကြီးကပြန်ပြောကြောင်း'ရေးထားပါသည်။ အကယ်၍ မန္တလေးမြို့ စံကျောင်းတိုက်သိမ်၌ပြုလုပ်သည့် ရဟန်းခံပွဲဖြစ်မည်ဆိုလျှင် ထိုရဟန်းခံပွဲတွင် စံကျောင်းဆရာတော်ကြီးလည်းရှိနေမည်ဖြစ်ရာ ဤသို့ပြောဝံ့ကြမည်မဟုတ်။ ထို့ပြင် ဤဖြစ်ရပ်နှင့်စပ်လျဉ်း၍ ဥပမာသင်္ဂဟဝစနက္ကမကျမ်းပြုဆရာ ဦးအောင်က အရှင်ဉာဏသည် ပညာမာန်ထောင် သောကြောင့် သံဘိုဆရာတော်ကြီးက ချွတ်ဟန်ရေးသားထားပါသည်။

'ငါခပ်ထားတာကိုသိကြလျှင် ဆရာသမားခပ်ထားသောရေဖြစ်သဖြင့် သုံးဝံ့ချိုးဝံ့ကြမည်မဟုတ်သောကြောင့် သူတို့အိပ်ကြသောညဉ့်နက်ချိန်ရောက်မှ ခပ်ရတာကွယ့်' ဟူ၍ဖြစ်ပါသည်။*၁

**ဆွမ်းခံကိုယ်တော်နှင့်မတည့်သော ဒကာမကြီး**

တစ်နေ့သော် လေ့ကူးရပ်ရှိဒါယိကာမကြီးတစ်ဦးက မိမိအနေဖြင့် မည်သို့မျှကြည်ညို၍မရသော အခြားဆွမ်းခံကိုယ်တော်ကြီးတစ်ပါးအကြောင်းကို အရှင်ဉာဏအား ဖွင့်ဟလျှောက်ထားခဲ့လေသည်။ ထိုဒါယိကာမကြီးက မိမိမကြည်ညိုသောဆွမ်းခံကိုယ်တော်ကြီးကြွလာတိုင်း အိမ်ပေါက်ဝမှနေ၍ နေ့စဉ်ကန်တော့ဆွမ်းလောင်း၍သာ လွတ်လေ့ရှိကြောင်းကိုလည်း လျှောက်ထားပြန်ပါသည်။

ထိုအခါ အရှင်ဉာဏက ဒါယိကာမကြီးအားဆုံးမဩဝါဒပေးတော်မူသည်မှာ–

'ဒကာမကြီး၊ ယခုအခါ သာသနာတွင်း၌ ကြုံကြိုက်၍ရရှိသော ဤမျက်စိနှစ်လုံးသည် ဒဿနာနုတ္တရိယ၏အကြောင်းဖြစ်ပေ၏။

ကြည်ညိုသောစိတ်ဖြင့် အရဟတ္တဓဇဖြစ်သော သင်္ကန်းတော်ကို မြင်ရခြင်းသည် ပဒေသရာဇ်,ကေရာဇ်,စကြာမန္ဒာတ မင်းတို့၏ စည်းစိမ်ကျက်သရေကို မြင်ရသည်ထက် လွန်မြတ်၏။ နတ်ပြည်ခြောက်ထပ် နတ်မင်းသိကြားမင်းတို့၏ စည်းစိမ်ကျက်သရေကို မြင်ရသည်ထက် လွန်မြတ်၏။ ပုထုဇဉ်ဗြဟ္မာမင်းတို့၏ ဘုန်းတန်ခိုးကျက်သရေကို မြင်ရသည်ထက် လွန်မြတ်၏။ ကြည်ညိုသောစိတ်ဖြင့် တစ်ကြိမ်တစ်ခါမျှ မြင်ရခြင်းသည် အကုဋေမက အဖိုးထိုက်တန်၏။

တောသွားယောကျ်ားတစ်ယောက်သည် တောအရပ်တွင် တောချုံပေါ်၌တင်၍နေသော သင်္ကန်းတော်တစ်ပိုင်းတစ်စကို တွေ့မြင်လေရာ အရဟတ္တဓဇကို တွေ့မြင်ရပေသည်ဟု အလွန်ကြည်ညိုစွာရှိခိုးပူဇော်၍ သေလွန်သောအခါ ထိုစီဝရပူဇာမင်္ဂလာကုသိုလ်နှင့်ပင် နတ်ရွာသုဂတိသို့ လားလေ၍ ငါတို့ဘုရားလက်ထက်၌ အကျွတ်ရဖူးသော စီဝရပူဇနီယဝတ္ထုများ အပဒါန်ကျမ်းတွင်ထင်ရှားရှိ၏။

ဒါယိကာမကြီး၏ဆွမ်းတစ်ဇွန်းသည် အဘယ်မျှလောက် အဖိုးတန်သနည်း?။ သင်္ကန်းတော်ကိုမြင်ရသောအမှုသည် အဘယ်မျှအဖိုးတန်လိမ့်မည်နည်း?။ သာသနာမရှိသောအခါ၌ 'ဤသင်္ကန်းတော်ကိုခြုံ၍ နေ့စဉ်ကြွခဲ့ပါ။ သင်္ကန်းတော်နှင့် ကျွန်တော်မမျက်စိ တွေ့ရှိပါရစေ၊ တစ်နေ့တစ်နေ့လျှင် ငွေတစ်ရာပေးပါမည်၊ ရနိုင်မည်လော' ဟုမေးပေ၏။

ဒါယိကာမကြီးက 'မရနိုင်ပါဘုရား' ဟုလျှောက်၏။

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၂၈)။

ထိုအခါ ဘုန်းတော်ကြီးအရှင်ဉာဏက 'ငွေတစ်ထောင်, ငွေတစ်သောင်း, ငွေတစ်သိန်းပေးသော် ရနိုင်မည်လော'ဟု မေးတော်မူပြန်သည်။

'မရနိုင်ပါဘုရား'ဟု လျှောက်ထား၏။

'ဒကာမကြီး၏မျက်စိကို သင်္ကန်းတော်ရောင်ဖြင့် အဖိုးအနဂ္ဃထိုက်တန်အောင် ချယ်လှယ်၍ပေးသော ထိုရဟန်းကြီးကို ဆွမ်းကလေးတစ်ဖွန်းလောက်နှင့် အကဲ ရောက်လို့ သင့်လျော်မည်လော'ဟု ဆုံးမတော်မူလေ၏။

ထိုနေ့မှစ၍ ဒကာမကြီးသည် ရဟန်းတော်တို့ကိုမြင်တိုင်းမြင်တိုင်း ကြည်ညိုနိုင်သောသဒ္ဓါ ကောင်းစွာတည်လေတော့သည်။*၁

**ကျူနဝီသတိမဝါဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၄၆–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၈၄–ခုနှစ်၊ ဇူလိုင်လ)တွင် အရှင်ဉာဏသည် ညောင်တစ်ပင်ရပ် သင်္ဂြိုဟ်ဦးဝိုင်း၏ကျောင်းမှာပင် (၁၉)ကြိမ်မြောက် ကျူနဝီသတိမဝါကို ကပ်တော်မူခဲ့ပါသည်။ ဤဝါသည် သင်္ဂြိုဟ်ဦးဝိုင်းကျောင်း၌ ဘုန်းတော်ကြီးအရှင်ဉာဏ ရှေးဦး ပထမကပ်သောဝါဖြစ်သည်။

**ဝုဍ္ဎါပစာယနဝတ်**

သင်္ဂြိုဟ်ဦးဝိုင်းကျောင်းဘုန်းကြီးအရှင်ဉာဏသည် လေ့ကျူးမုံရွာရှိကျောင်းတိုက်အသီးသီး တို့၌သီတင်းသုံးနေတော်မူကြသော အသက်သိက္ခာဝါတော်ကြီးရင့်ကြသည့်မဟာထေရ်ကြီးများကို နံနက်ဆွမ်းခံမထွက်မီ ဆိုင်ရာကျောင်းတိုက်သို့သွားရောက်ပြီး ခြေဆေးရေ၊ မျက်နှာသစ်ရေ တည်သည်၊ ဝတ်ကြီးဝတ်ငယ်များကိုလည်း ပြုတော်မူပါသည်။

ဤသို့ ဘုန်းတော်ကြီးအရှင်ဉာဏ၏ တစ်ကျောင်းဝင်တစ်ကျောင်းထွက် ကျောင်းကန် အသီးသီးသို့ တစ်လှည့်စီ ကနုတံဆေးခြင်း၊ ရေအိုးတည်ခြင်းစသောဝတ်များကို ပြုလုပ်တော် မူသည်ကိုတွေ့ကြရသောအခါ ဆိုင်ရာကျောင်းတိုက်သံဃာတော်ကြီးများက အရှင်ဉာဏသည် မိမိတို့ထက် အသက်သိက္ခာဝါငယ်လင့်ကစား မန်းပြန်ဘုရင့်ဆွမ်းဆန်တော်ရ ပထမစာတော်ချ ဟူသော ပရိယတ်ဂုဏ်ဟိတ်ကြောင့် အားနာကြကာ 'ဦးဝိုင်းဘုန်းကြီး၊ သည်လိုမလုပ်ပါနှင့်၊ အားနာပါသည်'ဟုမိန့်ဆို၍ တားဆီးတော်မူကြသည်။

အရှင်ဉာဏက လက်အုပ်ချီမိုးကာ–

'အရှင်တို့ဘုရား၊ ကြောင့်ကြမဲ့သီတင်းသုံးတော်မူကြပါဘုရား။ သံသရာအဆက် ဆက် တပည့်တော်၏လက်ခြေများသည် သားကျွန်,မယားကျွန် ဖြစ်ခဲ့ဖူးပေါင်း များလှပါပြီဘုရား၊ အမှန်သိရသောဤဘဝ၌ တပည့်တော်၏လက်ခြေအစုံတို့သည်

*၁ လယ်တီဆရာတော်ကြီး၏ ဓမ္မဒီပနီ။ ဂုဏဝတီစာပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၂၈၃–ခုနှစ်။ (စာမျက်နှာ–၁၁၁)။

သံဃာတော်များ၏ကျွန်ဖြစ်လိုပါသေးသည်ဘုရား။ သို့ပါ၍ တားမြစ်တော်မမူကြပါနှင့်ဘုရား၊ သံဃာဝတ်ကို လက်ခြေနှစ်ဖက်ဖြင့်ဆောင်ရွက်ပါရစေဘုရား’ဟု ရိုသေစွာလျှောက်ထားပြီး မိမိဆောင်ရွက်ရန်ရှိသောဝတ္တရားတို့ကို ပြုမြဲအတိုင်း ပြုတော်မူခဲ့ပါသည်။*၁

ဤသို့ သံဃာတော်အရှင်မြတ်တို့ကို ရိုသေကျိုးနွံစွာ သံဃာ့ကျွန်ကြီးသဖွယ် ဝုဍ္ဍါပစာယနဝတ်ကိုထမ်းဆောင်တော်မူနိုင်ခြင်းသည် အခြားသောအကြောင်းကြောင့်မဟုတ်၊ အရှင်ဉာဏ၏ အဇ္ဈတ္တသန္တာန်၌ ‘ငါ’ဟူသောမာန်မာန မောက်မာတက်ကြွမှုနည်းပါးခြင်းကြောင့်ပင်ဖြစ်သည်။

မာန်မာန၏လွှမ်းမိုးဖိစီးခံရသူတို့သည် ကိုယ့်ကိုယ်ကိုအထင်ကြီးကာ ထေရ်ကြီးဝါကြီးပုဂ္ဂိုလ်ကိုသော်မှ ရိုသေလေးစားရကောင်းမှန်းမသိ၊ မာနတောင်ကြီးဖိစီးထားသဖြင့် ငါ့ပြင်မရှိဟူသောဝါဝင့်ခြင်းကြောင့် ပစ္စုပ္ပန်,သံသရာတွင်ကျင်လည်သမျှ ဆင်းရဲနှင့်ကြုံတွေ့ကြရမြဲဖြစ်သည်။

အရှင်ဉာဏသည် မိမိကိုယ်တော်တိုင် ဝုဍ္ဍါပစာယနဝတ် သံဃဝေယျာဝစ္စတို့ကို ကျနစွာပြုစုလုပ်ကျွေးဆောင်ရွက်ဘိသကဲ့သို့ တပည့်အစဉ်အဆက်တို့အားလည်း–

‘တပည့်တို့၊ သာသနာနဲ့တွေ့တုန်းကြုံတုန်း သာသနဝေယျာဝစ္စ၊ သံဃဝေယျာဝစ္စကို ပြုလုပ်ကြကုန်။ သာသနကျွန်, သံဃကျွန်ဆိုတာ သာသနာတော်နဲ့တွေ့တုန်းကြုံတုန်းကာလမှ ခံလို့ရတယ်၊ အခွင့်သင့်လို့ သာသနာနဲ့တွေ့ကြုံကြတုန်း သံဃာ့ကျွန်များဖြစ်ကြပါကုန်’ဟူ၍ တိုက်တွန်းနှိုးဆော်တော်မူပါသည်။*၂

### ဘုန်းတော်ကြီးဦးသီလနှင့်တွေ့ဆုံခြင်း

နေ့စဉ် မြို့တွင်းကျောင်းတိုက်များသို့လှည့်လည်ကာ သံဃသေနာသနဝတ်ကိုပြုတော်မူစဉ်အတွင်း မုံရွာမြို့သို့ခေတ္တကြွရောက်နေသော ဘုန်းတော်ကြီးဦးသီလကို ဖူးမြင်ခွင့်ရတော်မူခဲ့ပါသည်။*၃

ဘုန်းတော်ကြီးဦးသီလသည် မိမိနှင့်တွေ့ဆုံသောရဟန်းတို့အား တောကျောင်းနေချင်အောင်ဟောပြောဆုံးမတော်မူလေ့ရှိ၏။ အများအားဖြင့် ကျမ်းဂန်တတ်ပုဂ္ဂိုလ်များသည် ဘုန်းတော်ကြီးဆုံးမသည့်အတိုင်း မြို့ကျောင်းကိုစွန့်ကာ တောရဆောက်တည်ကြကုန်၏။ ဘုန်းတော်ကြီးဦးသီလ၏ဆုံးမမှုဖြင့် ကျမ်းဂန်တတ်ရဟန်းတို့သည် ရွာကျောင်းစွန့်၍ တောကျောင်းနေရုံသာမကနေ့စဉ်ဆွမ်းခံဝတ်ထားကြကုန်၏။ ထိုအရှင်တို့သည် ကျမ်းဂန်ဗဟုသုတရှိသောကြောင့် မိမိကိုယ်၌ဖြစ်သော သဒ္ဓါအတုအစစ်ကို ဝေဖန်နိုင်ကြကုန်၏။ သတိပြည့်သောအခါ ဆုတ်နစ်ခြင်းမရှိကုန်။

---

*၁ လယ်တီဦးလုပိုင်၏ လယ်တီဂန္ထ ဝင်ကျော်များ။ (စာမျက်နှာ–၉၂)။

*၂ အရှင်ရာဇဓမ္မာဘိဝံသ၏ မစိုးရိမ်ဆရာတော်ကြီးဘဒ္ဒန္တ သူရိယာဘိဝံသ၏ ထေရုပ္ပတ္တိကထာ။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ–၁၄၆)။

*၃ လယ်တီဦးလုပိုင်၏ လယ်တီဂန္ထ ဝင်ကျော်များသမိုင်း။ (စာမျက်နှာ–၉၃)။

ဘုန်းတော်ကြီးက ရဟန်းငယ်တို့ကိုမူကား စာသင်ခြင်းပရိယတ်ဘက်သို့လိုက်ရန်ကိုသာ တိုက်တွန်းတော်မူလေ့ရှိသည်။*၁

အရှင်ဉာဏနှင့် ဘုန်းတော်ကြီးဦးသီလတို့ ဆုံမိကြသောအခါတွင်လည်း ဘုန်းတော်ကြီးဦးသီလသည် အရှင်ဉာဏ၏ပရိယတ်စာပေနှံ့စပ်ကျွမ်းကျင်မှုကိုဩဝါတော်မူပြီးဖြစ်ရကား လက်ငင်းရောက်ရှိနေသော အရွယ်ကိုထောက်ထား၍ အရှင်ဉာဏအား စာပေပရိယတ်သင်ခြင်းထက် တောရနေခြင်း၏အကျိုးကိုသာ ဟောပြောတော်မူမည်မှာ ကေန်ဖြစ်ချေသည်။ အရှင်ဉာဏသည် ဘုန်းတော်ကြီး ဦးသီလ၏ တောရဆောက်တည်ခြင်းတရားကိုနာယူရသောအခါ၌ ရှေးရှေးကလည်း မိမိ၏နှလုံးတွင်းကိန်းဝပ်နေသော နေကွမ္မဋ္ဌာသယမီးခဲသည် ဦးသီလ၏တောရဆောက်တည်ခြင်းတရားတည်းဟူသောလေ၏ ပင့်ဆောင်တိုက်မှုကြောင့် ရဲရဲညီးညီးတောက်ပလာကာ တောရနိဝင်လိုစိတ်ပြင်းပြထက်သန်လာပြန်ပါတော့သည်။

**မတည်ငြိမ်သောကာလ**

သက္ကရာဇ် ၁၂၄၆–ခုနှစ်၊ နှောင်းတန်ခူးလကွယ်နေ့၌ ၁၂၄၆–ခုနှစ်ကုန်၍ ကဆုန်လဆန်း ၁–ရက် အင်္ဂါနေ့တွင်နှစ်ကူးအတာတက်ပြီး သက္ကရာဇ် ၁၂၄၇–ခုနှစ် (အေဒီ–၁၄၊ ဧပြီလ၊ ၁၈၈၅) သို့ကူးပြောင်းလေသည်။ သက္ကရာဇ် ၁၂၄၀–ပြည့်နှစ်(အေဒီ–၁၈၇၈)ကနန်းတက်ခဲ့သော သီပေါမင်းကလေး၏နန်းသက်သည် ခုနစ်နှစ်တာကာလသို့ရောက်ခဲ့လေပြီ။ သက္ကရာဇ် ၁၂၄၇–ခုနှစ်(အေဒီ–၁၈၈၅)သို့ကူးပြောင်းစကာလ နှစ်ဦးပိုင်းတွင် တိုင်းပြည်အေးချမ်းတော့မည့် အရိပ်အယောင်များဖြစ်ပေါ်နေ၏။

လွန်ခဲ့သောနှစ်နှစ်(၁၂၄၅–ခုနှစ်က)ကစ၍ အလုံမုံရွာတစ်ဝိုက်၌ သီပေါမင်းနန်းတက်သည်ကို မကျေနပ်၍ ပုန်ကန်သောတပ်များသည် သက္ကရာဇ် ၁၂၄၇–ခုနှစ်၊ နှစ်အဝင် (အေဒီ ၁၈၈၅–ခုနှစ်၊ ဧပြီလ)သို့ရောက်သောအခါ လေှသင်းဝန်မင်းကြီးထံ လက်နက်ချအညံ့ခံခဲ့ကြ၏။ အခြားမြို့ရွာများတွင်လည်း ဆိုးသွမ်းတိုက်ခိုက်သူများ လက်နက်ချခိုဝင်ကြသောကြောင့် နိုင်ငံအဝန်း သာယာငြိမ်ဝပ်မှုရှိနေကြောင်းကို ရာဇဝင်မှတ်တမ်းများ၌ဖော်ပြထားကြသည်။*၂

ဤသို့ သက္ကရာဇ် ၁၂၄၇–ခုနှစ်အစ၌ တိုင်းပြည်အေးချမ်းတော့ဟန်ရှိရာမှ သက္ကရာဇ် ၁၂၄၇–ခုနှစ်၊ နှစ်အလယ်ကာလသို့ရောက်သောအခါ အင်္ဂလိပ်နှင့်ပြင်သစ်တို့က မြန်မာ့နန်းတော်တွင်းရေး၌ ဝင်၍ခြေရှုပ်ကြ၊ မှူးမတ်များကလည်း အုပ်စုဖွဲ့ရုံးစုရုံးစုလုပ်ကြ၊ အတွေ့အကြုံနုနယ်သော သီပေါမင်းကလေးမှာ တိုင်းပြည်ရေးရာတို့တွင် ထိရောက်စွာမစီမံမခန့်ခွဲနိုင်သဖြင့် နိုင်ငံအရေးမှာ ရင်လေးဖွယ်အခြေသို့ဆိုက်ရောက်ခဲ့တော့သည်။ နိုင်ငံတော်တစ်ဝန်းမှာ တိုင်းပြည်နေ့ပျက်တော့မလိုလို ညပျက်တော့မလိုလိုနှင့် အုတ်အုတ်ကျက်ကျက်ဖြစ်၍သာနေတော့သည်။

---

*၁ ညောင်လေးပင်ဆရာတော်ကြီး၏ ဘုန်းတော်ကြီးဦးသီလထေရုပ္ပတ္တိ။ ၁၉၇၄–ခုနှစ်။ (စာမျက်နှာ–၅၃)။

*၂ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၆၉၅)။

**ဝီသတိမဝါဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၄၇–ခုနှစ်၊ ဝါဆိုချိန် (အေဒီ ၁၈၈၅–ခုနှစ်၊ ဇွန်လ)သို့ရောက်သောအခါ တစ်တိုင်းပြည်လုံး ကြိမ်မီးအုံးသကဲ့သို့အပူတွေ့နေကြချိန်တွင် အရှင်ဉာဏသည် မိမိ၏သာသနာရေးကိစ္စများမှာသာ သမာဓိထားလျက် တိုင်းမှုပြည်မှုမင်းရေးစိုးတာတို့သည် မိမိနှင့်မသက်ဆိုင်သည့်အလားဖြစ်စေပြီးလျှင် ညောင်တပင်ရပ် သင်္ဂြိုဟ်ဦးဝိုင်းကျောင်း၌ အကြိမ်(၂၀)မြောက် ဝီသတိမဝါကို ကပ်တော်မူခဲ့ပါသည်။

**ခမည်းတော်ကြီးကိုပြုစုစောင့်ရှောက်ခြင်း**

ဤသို့သောကာလအတွင်း အရှင်ဉာဏ၏ခမည်းတော်ကြီးဦးထွန်းသာသည် အသက်အရွယ်ကကြီးရင့်, ကျန်းမာရေးယိုယွင်းလာသည့်အတွက် ဘုန်းတော်ကြီးအရှင်ဉာဏက စိုင်ပြင်ရွာမှ မုံရွာရှိမိမိ၏ကျောင်းသို့ခေါ်ဆောင်ခဲ့ပြီး အနီးကပ်ပြုစုစောင့်ရှောက်တော်မူခဲ့ပါသည်။

အစာအာဟာရ ဆေးဝါးအပြည့်အစုံဖြင့် ညနေ့မခြား ကိုယ်တော်တိုင်ပြုစုတော်မူပါသည်။ ဝေဒနာသက်သာသောအခိုက်တွင် တရားဓမ္မဟောကြားပြသခြင်းဖြင့် မွေးကျေးဖူးကိုဆပ်တော်မူပါသည်။ အရှင်ဉာဏသည် ဂိလာနုပဋ္ဌာကအဖြစ် ခမည်းတော်နှင့်ပူးပူးကပ်ကပ်နေပြီး ခမည်းတော်၏နောက်ဆုံးအချိန်ရောက်သည့်တိုင် တယုတယပြုစုစောင့်ရှောက်တော်မူခဲ့ပါသည်။ 'သုခါ မေတ္တေယျတာ လောကေ၊ အထော ပေတ္တေယျတာ သုခါ =လောက၌ အမိကိုလုပ်ကျွေးခြင်းသည် ချမ်းသာ၏။ ထိုမှတစ်ပါး အဖကိုလုပ်ကျွေးခြင်းသည် ချမ်းသာ၏' (ဓမ္မ၊ဗြ၊၊ ဓမ္မ၊ဋ္ဌ၊၂။၃၂၅)ဟူသော မြတ်စွာဘုရားရှင်၏ဩဝါဒဓမ္မကထာအတိုင်း အရှင်ဉာဏသည် ခမည်းတော်ကြီးကို နောက်ဆုံးအနေဖြင့် ပြုစုစောင့်ရှောက်ခွင့်ရသည့်အတွက် စိတ်ကြည်ရွှင်လန်း အေးချမ်းတော်မူခဲ့ရပါသည်။

ခမည်းတော်ကြီးအပေါ် အရှင်ဉာဏပြုစုစောင့်ရှောက်နေတော်မူပုံမှာ မြတ်စွာဘုရားရှင်က ခမည်းတော်သုဒ္ဓေါဒနမင်းကြီးကို ပြုစုစောင့်ရှောက်တော်မူခဲ့ပုံနှင့် အလားတူလေသည်။

မြတ်စွာဘုရားရှင် ငါးဝါရတော်မူသောအချိန်တွင် ခမည်းတော်သုဒ္ဓေါဒနမင်းကြီးမှာ သက်တော် ၉၀–ကျော်အရွယ်သို့ရောက်ရှိကာ ဇရာဒုဗ္ဗလအိုမင်းမစွမ်းဖြစ်၍ အိပ်ရာညောင်စောင်းမှာသာ စံနေတော်မူရပါသည်။ သုဒ္ဓေါဒနမင်းကြီးသည် ရောဂါဝေဒနာခံစားယင်း မိမိ၏သားတော်ဘုရားရှင်နှင့်မြေးတော်တို့ကို မှန်းမျှော်တမ်းတတော်မူခဲ့ပါသည်။ ဤသို့ ခမည်းတော်ကြီးတမ်းတသည်ကို ဘုရားရှင်သိတော်မူ၍ ညီတော်အာနန္ဒာ၊ ညီတော်နန္ဒ(မင်းနန်)၊ သားတော်ရာဟုလာတို့နှင့်အတူ ခမည်းတော်မင်းကြီး၏စံနန်းတော်သို့ကြွတော်မူခဲ့၏။ နန်းတော်သို့ရောက်လျှင် မြတ်စွာဘုရားရှင်သည် မင်းကြီး၏ဦးခေါင်းကို လက်ယာလက်တော်ဖြင့်သုံးသပ်တော်မူ၍ သစ္စာဆိုတော်မူရာ ခမည်းတော်မင်းကြီး၏ဦးခေါင်း၌ဖြစ်သောရောဂါတို့ သက်သာငြိမ်းအေးခဲ့ရ၏။ ထိုနည်းတူပင် အရှင်အာနန္ဒာ၊ နန္ဒမထေရ်နှင့် ရာဟုလာတို့ကလည်း သစ္စာပြုတော်မူသဖြင့် မင်းကြီး၏ ခန္ဓာကိုယ်၌ဖြစ်ပေါ်လျက်ရှိသောရောဂါဝေဒနာများ ငြိမ်းအေးတော်မူခဲ့၏။ မြတ်စွာဘုရားရှင်သည် ခမည်းတော်မင်းကြီးကို တရားဟောတော်မူလေရာ သုဒ္ဓေါဒနမင်းကြီးသည် ထီးဖြူတော်ကြီး

အောက်မှာပင် မင်းမြှောက်တန်ဆာတို့ဆင်ယင်လျက်ဖြင့် ရဟန္တာဖြစ်တော်မူခဲ့လေသည်။ ခမည်းတော်မင်းကြီးသည် မိမိပရိနိဗ္ဗာန်စံရန်ကာလကို သိတော်မူသောကြောင့် မြတ်စွာဘုရားရှင်ထံတော်၌ ပရိနိဗ္ဗာန်ပြုခွင့်တောင်းတော်မူလေသည်။ ခမည်းတော်ကြီးပရိနိဗ္ဗာန်ပြုသောအခါ မြတ်စွာဘုရားရှင်သည် ဦးခေါင်းကိုမ၍ ရေချိုးပေးတော်မူ၏။ မီးသင်္ဂြိုဟ်သောအခါမှာလည်း ဘုရားရှင်ကိုယ်တော်တိုင် ထင်းပုံပေါ်သို့မ,ချီမြှောက်တင်ပေးတော်မူကာ အလောင်းစင်ထင်းပုံကို မြတ်စွာဘုရားရှင်ကပင်စ၍ မီးတို့တော်မူခဲ့၏။

ဤသို့လျှင် သုံးလောကထွဋ်ထားမြတ်စွာဘုရားကိုယ်တော်တိုင် ခမည်းတော်၏အန္တိမကိစ္စကိုကြောင့်ကြစိုက်ကာ နမူနာပြဆောင်ရွက်တော်မူခဲ့ခြင်းဖြစ်ရာ အရှင်ဉာဏသည်လည်း သကျပုတ္တဘုရားသားတော်ကြီးပီပီ ခမည်းတော်ကြီးဦးထွန်းသာကို မကွယ်လွန်မီမှာလည်း လိုလေသေးမရှိအောင် အထူးဂရုစိုက်စောင့်ရှောက်ပြုစုတော်မူခဲ့ပြီး၊ ကွယ်လွန်သောအခါမှာလည်း ကိုယ်တော်တိုင်ပင်ဦးစီးဦးရွက်ပြုကာ ကောင်းစွာသင်္ဂြိုဟ်တော်မူခဲ့ပါသည်။

## ပါတော်မူကာလ

သက္ကရာဇ် ၁၂၄၇–ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် ၈–ရက် (အေဒီ–၂၉၊ နိုဝင်ဘာလ၊ ၁၈၈၅–ခုနှစ်)တွင် သီပေါရှင်ဘုရင်၊ မိဖုရားနှင့်မယ်တော်၊ နှမတော်တစ်စုတို့ အင်္ဂလိပ်လက်သို့ပါတော်မူခဲ့ရသည်။ ခေတ်နှင့်လျော်ညီသည့်အုပ်ချုပ်ရေးစနစ်ကိုပြုပြင်လိုသော ယောမင်းကြီးကို 'ဖိုးလှိုင်ပေးသမျှ ငါတို့သုံးစွဲရမည်လော'ဟုဆိုပြီး အရာမှချခြင်း*၁ စသည်ဖြစ်ရပ်တို့ကို ဘုန်းတော်ကြီးအရှင်ဉာဏမှာ မန္တလေး၌သီတင်းသုံးစဉ်အခါက ကိုယ်တိုင်တွေ့ကြုံဖူးလေရာ ထိုစဉ်အခါကပင် ဤထီးဤနန်းကား သက်ဆိုးမရှည်တိုင်ရာ–ဟု အရှင်ဉာဏ တွက်ဆမိပြီးဖြစ်သည်။

ကင်းဝန်မင်းကြီးကဲ့သို့ နိုင်ငံတကာအဆင့်အတွေ့အကြုံရှိသော မင်းကြီးသက်တော်ရှည်လိုပုဂ္ဂိုလ်မျိုးကို 'ဒီလောက်ကြောက်တတ်ရင် ထမီဝတ်ထားပါလား'ဟု မိုလ်ပုံအလယ်၌ငေါက်ငမ်းခဲ့သည့် ထိုရှင်ဘုရင်မောင်နှမသည် ကိုယ့်နိုင်ငံ ကိုယ့်မြို့တော် ကိုယ့်အခြွေအရံတွေကြားမှာပင်ကြက်ကလေးငှက်ကလေးကို ဖမ်းယူခြင်းခံရဘိသို့ တိုင်းတစ်ပါးသားလက်သို့ မငြင်းမဆန်သာပါတော်မူရပုံကား မြင်ရသူတို့အဖို့ ရင်ထုမနာဖြစ်စရာပင်။

ခေတ်ပျက်နှင့် အများတကာတို့တွေ့ကြုံရသည့်အချိန်၌ အရှင်ဉာဏသည် ရတနာပုံရွှေမြို့တော်ရှိ မိမိ၏ကျေးဇူးရှင်စံကျောင်းဆရာတော်ဘုရားကြီးနှင့် သမဂ္ဂဖြစ်ကြကုန်သောသံဃာတော်တို့အား အထူးရည်မှန်းပြီး မေတ္တာဖြန့်ဝေနေတော်မူခဲ့သည်။ ကျေးဇူးရှင်စံကျောင်းဆရာတော်ကြီးသည် မြောက်ပြင်မီးကြီးလောင်ပြီးသည့်နောက် ၁၂၄၅ (အေဒီ–၁၈၈၃)ခုနှစ်တွင် မန္တလေးရွှေမြို့တော်တောင်ပြင် မောရဂီဝါအရပ်*၂ ရှိ ဥပုသ်ဓမ္မာရုံအနီးတွင် သီပေါမင်းက စံကျောင်း

*၁ ယောမင်းကြီးဦးဘိုးလှိုင်၏ ရာဇဓမ္မသင်္ဂဟကျမ်း။ ၁၉၉၂–ခုနှစ်။ (စာမျက်နှာ–၁၀၅)။

*၂ မောရဂီဝါရပ် အကွက်အမှတ်(၇၁၀)မှာ ယခု မန္တလေးမြို့ ချမ်းအေးသာစံမြို့နယ် ၃၁–လမ်း၊ ၃၂–လမ်းနှင့် ၇၄–လမ်း၊ ၇၅–လမ်းအကြားဖြစ်သည်။

တစ်ဆောင် ဆောက်လုပ်လှူဒါန်းသည့်အတွက် ထိုမော်ရုံစံကျောင်းသို့ ပြောင်းရွှေ့စံနေတော်မူစဉ် အခါဖြစ်ပါသည်။[*၁]

သီပေါမင်းပါတော်မူသည်နှင့် မုံရွာ၊ ဘုတလင်၊ ညောင်ကန်၊ ပေယင်း၊ ကင်းစမ်း၊ ရဲထွက် စသောရွာတို့တွင် ဗိုလ်လှဦးခေါင်းဆောင်သည့်တပ်များက အင်္ဂလိပ်တပ်များကို တော်လှန်ခဲ့ကြ၏။ မောင်းထောင်ရွာမှ ဗိုလ်ဝက်၊ မောင်းထောင်ရွာအုပ်ဦးမင်းဟန်တို့ကလည်း တော်လှန်တိုက်ခိုက်ခဲ့ကြ၏။ သို့ပါ၍ ပါတော်မူစကာလမှာပင် မုံရွာနယ်တစ်ဝိုက်၌ နယ်ချဲ့အင်္ဂလိပ်တို့ကို တော်လှန်သောတိုက်ပွဲများဖြစ်နေသဖြင့် နယ်မြေမငြိမ်သက်ဖြစ်ခဲ့ပါသည်။[*၂]

ဤသို့ ကာလဝိပ္ပတ္တိ ကာလပျက်ခေတ်ဆိုးကြီး၌ ရှင်လူအများစိတ်ဓာတ်ချောက်ချားကာ စိုးရွံ့ထိတ်လန့်နေကြချိန်တွင် အရှင်ဉာဏအဖို့ စာချခြင်းတည်းဟူသောဂန္ထဓုရအာရုံ၊ ကမ္မဋ္ဌာန်းဘာဝနာပွားများအားထုတ်ခြင်းဟူသော ဝိပဿနာဓုရအာရုံစသည်တို့၌ ကေဂ္ဂတာကျသမာဓိရနေတော်မူပါသဖြင့် ထိုကာလဆိုးအဖြစ်ဆိုးတို့ကို လျစ်လျူရှုနေနိုင်တော်မူခဲ့ပါသည်။ မိမိနှင့်အတူ နေထိုင်ကြသော သီတင်းသုံးဖော် စာသင်သားသံဃာတော်တို့ကိုလည်း ဟိုဟိုသည်သည်ကိစ္စများကြောင့် ထိတ်လန့်မနေကြစေဘဲ ပရိယတ်,ပဋိပတ်နှစ်ပါးတို့ကိုသာ စိတ်စိုက်အားထုတ်တော်မူကြရန် နှိုးဆော်တိုက်တွန်းတော်မူခဲ့ပါသည်။[*၃]

**နွားသားကိုစ၍ရှောင်ကြဉ်တော်မူခြင်း**

'သီပေါမင်းကို ကုလားဖမ်းယူသွားပြီ၊ မြန်မာနိုင်ငံကို ကုလားအုပ်ချုပ်လိမ့်မည်'[*၄] ဟု ကြားစအခါကပင် အရှင်ဉာဏသည် ဤသို့လျှင် အကြံအစည်တစ်ရပ်ဖြစ်တော်မူပါသည်။

မြန်မာနိုင်ငံကို ကုလားအုပ်ချုပ်လျှင် ကုန်းသတ္တဝါများစွာ သေကြေပျက်စီးဖို့ရန်အကြောင်းရှိ၏။ အကြောင်းမှာ အနောက်နိုင်ငံသားကုလားလူမျိုးတို့သည် အသားကိုအလွန်အကျွံစားလေ့ရှိကြသည်။ သူတို့ကုလားလူမျိုးများ ဤမြန်မာနိုင်ငံသို့ရောက်လာကြလျှင် သူတို့စားသောက်ဖို့အတွက် နွားသတ်ရုံ၊ ဝက်သတ်ရုံ၊ ဆိတ်သတ်ရုံတွေဖွင့်လှစ်ကြပြီး နွား, ဝက်, ကြက်, ငှက်, ဘဲ, ဆိတ် စသောကုန်းသတ္တဝါတွေကိုသတ်ဖြတ်ကြပါက ထိုကုန်းနေသတ္တဝါတွေသည် သေကိန်းကြီးဆိုက်ကြတော့မည်-ဟူ၍ဖြစ်သည်။

အထက်ပါအတိုင်းအကြံအစည်ဖြစ်ပြီးနောက် ဘုန်းတော်ကြီးအရှင်ဉာဏသည် မိမိအနီးရှိသော သီတင်းသုံးဖော်သံဃာတော်တို့အား-

---

[*၁] အရှင်ကေလာသ၏ မဏ္ဍလေးသာသနာဝင်၊ ပဋ္ဌမတွဲ။ သာသနာရေးဦးစီးဌာန၊ရန်ကုန်မြို့။ ၁၉၈၆-ခုနှစ်။ (စာမျက်နှာ-၄၃၃)။

[*၂] မုံရွာစန်းမောင်၏ ထူးခြားအံ့ဖွယ်ဗဒုံနယ်။ ၁၉၉၁-ခုနှစ်။ (စာမျက်နှာ-၁၉)။

[*၃] လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၂၉)။

[*၄] ထိုစဉ်က အင်္ဂလိပ်ကို 'ကုလား'ဟုသာ ရပ်ရွာကသုံး၏။ နောင်သောအခါ ဘင်္ဂလားမေ်ာ အိန္ဒိယမှ အလုပ်လုပ်ရန် ဝင်လာသော အသားမည်းကုလားတို့နှင့်ကွဲပြားစေရန် 'ကုလားဖြူ'ဟု ခေါ်ဝေါ်သုံးနှုန်းသည်။

'ဦးပဋ္ဌင်းတို့၊ ယခု မြန်မာနိုင်ငံ*၁ ကို ကုလားများအုပ်ချုပ်တော့မည်။ သူတို့ အုပ်ချုပ်လျှင် ကုန်းသတ္တဝါတွေ များစွာသေကြေပျက်စီးကြလိမ့်မည်။ နွားသတ္တဝါများသည် လူတို့၏အသက်သခင်ဖြစ်၏။ အမိသဖွယ် အဖသဖွယ်လည်းဖြစ်၏။ တပည့်တော်တို့အပေါ်မှာလည်း အလွန်ကျေးဇူးများ၏။ သို့အတွက် သည်နေ့ကစပြီး ကိုယ့်အပေါ်ကျေးဇူးများကြသော နွားသားကို တပည့်တော်လည်း မစားတော့ဘူးဟု ရှောင်ကြဉ်ပါမည်၊ ကိုယ်တော်တို့လည်း မစားကြပါနှင့်တော့'–ဟု တိုက်တွန်းအလှူခံတော်မူခဲ့ပါသည်။ ထိုသို့ မိန့်ဆိုသည့်နေ့မှာပင် အရှင်ဉာဏသည် နွားသားစားသောက်ခြင်းကို ရှောင်ကြဉ်တော်မူခဲ့ပါသည်။*၂

မြန်မာလူမျိုးနှင့်နွား

မြန်မာနိုင်ငံ၌ ရှေးအခါကပင် မြေကိုမှီကာ လယ်ယာထွန်ယက်မှုကိုအဓိကထားအသက်မွေးကြသည်ဖြစ်၍ နွားသည် လူနှင့်တစ်ခြံတည်း,တစ်ယာတည်း,တစ်ဝင်းတည်း,တစ်အိမ်တည်း အတူနေသတ္တဝါဖြစ်၏။ နွားသည် တစ်နွေ,တစ်မိုး,တစ်ဆောင်း လယ်ယာလုပ်ငန်းကို လူတို့နှင့်အတူရုန်းကန်၍လုပ်ကိုင်ကြရပြီး လယ်ယာလုပ်ငန်းခွင်မှနားသောအခါ လူတို့နေမှုထိုင်မှုစားသောက်မှုတို့အတွက် နွားက ရေလှည်းဆွဲပေးရ၏။ ထင်း,ဝါးစသည်ကိုတိုက်ပေးရပြန်၏။ ထို့နောက် အလှူအတန်း၊ ရှာနီးချုပ်စပ်ကိစ္စဝိစ္စအဝဝကို နွားကိုလှည်းယာဉ်ကြော့မှာက,ပြီး သွားလာကြရပြန်၏။ ထိုခေတ်က နွားမပါလျှင် ဘယ်နေရာမှမပြီးဟုပင်ဆိုနိုင်၏။

ဘုတလင်၊ မောင်းထောင်၊ ဒီပဲယင်းစသောအရပ်ဒေသများတွင် သီတင်းကျွတ်လပြည့်ညအခါ တစ်နှစ်တာလုံး မနေမနားခိုင်းလာသော နွားများ၏အနီးအပါး၌ ဆီမီးထွန်းညှိပေးပြီးလျှင် 'အမောင်နွား၊ ဘုရားကိုအာရုံပြု ဆီမီးပူဇော်ပါ၊ မိုးတွင်းက အမောင်နွားကို ရိုက်မိငေါက်မိသည်များကိုလည်း သည်းခံပါ၊ အပြစ်မယူပါနှင့်'ဟု တောင်းပန်ကန်တော့ကြသောအလေ့ရှိ၏။*၃

နွားသည် လူတို့အတွက် နှစ်ရှည်လကြာ လုပ်ငန်းလုပ်ကိုင်ပေးပြီး အသက်ကြီးရင့်လာ၍ မလုပ်မကိုင်နိုင်တော့သောအခါ ထိုနွားအိုကြီးကို အသက်ရှည်သမျှကာလပတ်လုံး ကောင်းစွာကျွေးမွေး၍ ဘေးမဲ့ပေးထားကြပါသည်။ အဆင်မတော်၍သေဆုံးသွားသော် လူ့အသုဘလို တင့်တင့်တယ်တယ် မြေမြှုပ်သင်္ဂြိုဟ်ပေးကြပါသည်။ ရှေးအခါက အမဲသားစားသူဟုဆိုလျှင် နှစ်နှစ်နာနာဆဲရေးခံရသည့်ပမာ အလွန်ခံရခက်လောက်အောင် နာကြည်းကြသည်–ဟူ၏။

---

*၁ မြန်မာနိုင်ငံဆိုသည်မှာ မင်းတုန်းမင်းနှင့်သီပေါမင်းတို့လက်ထက်တွင် အထက်မြန်မာနိုင်ငံ မန္တလေးအပါအဝင် မြန်မာပြည်မြေပုံ၏ သုံးပုံတစ်ပုံခန့်ကိုသာဆိုလိုသည်။ ပဲခူး၊ တနင်္သာရီ–စသော အောက်မြန်မာပြည်အပါအဝင် ရခိုင်ပြည်နယ်–စသည်တို့ကို အင်္ဂလိပ်တို့သိမ်းယူခဲ့ပြီးဖြစ်၏ ။

*၂ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၂၈၊ ၂၉)။

*၃ ဦးသုဒဿနာ၏ မောင်းထောင်ရပ်လုံးဖော်ဒီကာ။ ၁၉၉၈–ခုနှစ်။ (စာမျက်နှာ–၃၇)။

**နွားနှင့် ကျမ်းဂန်စာပေအယူအဆ**

မြန်မာလူမျိုးတို့၏ရှေးရိုးအစဉ် ဘုန်းကြီးကျောင်းပညာရေး၌ 'နမော ဗုဒ္ဓါယ သိဒ္ဓံ' ဘုရားရှိခိုးကိုဆိုပြီးသည့်နောက် စတုရင်္ဂဗလအမတ်ကြီး၏လောကနီတိဂါထာများကို ကျက်ကြရ၏။ လောကနီတိဂါထာ သင်ရသောသူတို့အဖို့ (ဂါထာအမှတ်–၁၄၉၊ ၁၅၀) လာ 'ယေ စ ခါဒန္တိ ဂေါမံသံ'စာသားတို့ကိုကျက်ရလေရာ၊ ထိုဂါထာ၏အနက်အဓိပ္ပာယ်အရ နွားသားမှန်က အသေသားဟူသော ပုံသက္ကူသားကိုပင် စားဝံ့တော့မည်မဟုတ်ပေ။

လောကနီတိဆရာပြဆိုထားသော နွားသားမစားသင့်ကြောင်းနှစ်ဂါထာ (ဂါထာအမှတ်–၁၄၉ နှင့် ၁၅၀)တို့မှာ အောက်ပါအတိုင်းဖြစ်သည်။

၁၄၉။ ဂါဝေါ ဟိ သဗ္ဗဂိဟီနံ၊ ပေါသကာ ဘောဂ ဒါယကာ။
တသ္မာ ဟိ မာတာပိတုဝ၊ မာနယေ သက္ကရေယျ စ။

[ဂါဝေါ=နွားတို့သည်။ သဗ္ဗဂိဟီနံ=ခပ်သိမ်းသောလူတို့အား။ ယသ္မာ=အကြင်နို့ရည်ပေးခြင်း၊ လုပ်ဆောင်ခြင်းဖြင့်။ ပေါသကာ=ကျွေးမွေးတတ်ကုန်၏။ ဘောဂ ဒါယကာ=စည်းစိမ်ကိုပေးတတ်ကုန်၏။ တသ္မာ=ထို့ကြောင့်။ မာတာပိတုဝ=အမိအဖကဲ့သို့။ တေ=ထိုနွားတို့ကို၊ မာနယေ=မြတ်နိုးရာ၏။ သက္ကရေယျ စ=အရိုအသေပြုရာ၏။]

၁၅၀။ ယေ စ ခါဒန္တိ ဂေါမံသံ၊ မာတု မံသံဝ ခါဒတိ။
မတေသု တေသု ဂိဇ္ဈာနံ၊ ဒဒေ သောတေစ ဝါဟယေ။

[ယေ စ=အကြင်သူတို့သည်။ ဂေါမံသံ=နွားတို့၏အသားကို။ ခါဒန္တိ = စားကုန်၏။ တေ=ထိုသူတို့သည်။ မာတုမံသံဝ=မိခင်၏အသားကို။ ခါဒတိဝ=စားသည်မည်ရာ၏။ တေသု=ထိုနွားတို့သည်။ မတေသု=သေကုန်သည်ရှိသော်။ ဂိဇ္ဈာနံ=ငှင်းတတို့အား။ ဒဒေ=ပေးရာ၏။ သောတေ စ=ရေအလျဉ်၌သော်လည်း။ ဝါဟယေ=မျှောရာ၏။][*၁]

လောကနီတိပျို့ဆရာ နေမျိုးမင်းထင်ကျော်ခေါင် အမှာတော်ရေးဦးရှင်ကလေးကလည်း ဖော်ပြပါနှစ်ဂါထာကို မှတ်လွယ်စေရန်–

'နွားဟူသည်ကား၊ လူအများကို၊ စပါးရအောင်၊ ထွန်ယက်ဆောင်လျက်၊ မြားမြောင်သုခ၊ ပေးတတ်လှ၍၊ မိဘအလား၊ နွားကိုမြတ်နိုး၊ ရိုညွတ်ကျိုးလော့။ ဆိုရိုးစကား၊ နွားအသားကို၊ စားပေလတ်က၊ မိဘအသား၊ စားသည်မည်လေ။ ထို့ကြောင့်ပေတည့်၊ နွားသေကိုလျှင်၊ မြစ်တွင်မျှောငြား၊ ပြင်လွင်ထားလော့'– ဟူ၍ စပ်ဆိုထားခဲ့ပါသည်။[*၂]

---

*၁ ကျီးသဲလေးထပ်ဆရာတော်ကြီး၏ လောကနီတိပါဠိအနက်။ ကထိန်အမေးအဖြေနှင့်ငါးစောင်တွဲ။ သာသနာရေးဦးစီးဌာန၊ ၁၉၈၂–ခုနှစ်။ (စာမျက်နှာ–၃၂၃)။

*၂ မာဃဝ၏ ဆုံးမစာပေါင်းချုပ်ကြီး။ နလုံးလှစာပေ။ ၁၉၈၈–ခုနှစ်။ (စာမျက်နှာ–၄၆၆)။

သုတ္တန္တပိဋက၊ ခုဒ္ဒကနိကာယ်၊ သုတ္တနိပါတပါဠိတော်(သုတ္တနိ၊ ဂါထာ–၃၁၃။ ခုဒ္ဒ၊ ၁။၃၂၅) တွင်လည်း–

'ရှေးက ကမ္ဘာလောက၌ လိုချင်တောင့်တသောရောဂါတစ်မျိုး၊ ဆာလောင်မွတ်သိပ်သော ရောဂါတစ်မျိုး၊ အိုးမင်းရင့်ရော်သောရောဂါတစ်မျိုးဟူ၍ ရောဂါသုံးမျိုးသာရှိခဲ့ပြီး နွားသားကို စတင်၍စားသောအခါမှသာ ၉၆–ပါးသောရောဂါတို့ဖြစ်လာရသည်။ နွားတို့သည် တို့လူများကို အစာထမင်းကိုပေးတတ်၏။ အားခွန်ဗလကိုလည်းပေးတတ်၏။ ထိုနွားတို့သည် ငါတို့အား အရောင်အဆင်းကိုလည်းပေးတတ်၏။ ကိုယ်စိတ်နှစ်ဖြာချမ်းသာသုခကိုလည်းရကြ၏။ ဤသို့လျှင် နွားတို့၏ကျေးဇူးဂုဏ်ကို သိကြ၍ ထိုရှေးသူတော်ကောင်းလူအပေါင်းတို့သည် နွားတို့ကို ရိုက်ပုတ်ညှဉ်းဆဲခြင်းကိုမျှ မပြုကြကုန်'ဟု မြတ်စွာဘုရားရှင်ဟောတော်မူခဲ့ပါသည်။

ဤသို့လျှင် 'အန္န=အစာ၊ ဗလ=ခွန်အား၊ ဝဏ္ဏ=အဆင်း၊ သုခ=ချမ်းသာမှု'ဟူသော အကျိုးတရားလေးပါးကို ပေးတတ်သောကြောင့် ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးတို့က နွားသည် တိရစ္ဆာန်ဖြစ်ပါလျက် အကျိုးပေးတတ်သည်ကို အစွဲပြု၍ 'ကျေးဇူးရှင်နွား'ဟု ဂုဏ်ပြုသိမှတ်ထားခဲ့ကြပေသည်။

## မြန်မာဘုရင်နှင့်နွား

မြန်မာဘုရင်များလက်ထက်က ဤနိုင်ငံသည် လယ်ယာကိုအခြေပြုသောနိုင်ငံဖြစ်၍ ဘုရင်က ဦးဆောင်ပြီး မင်းခမ်းမင်းနားဖြင့် လယ်ထွန်မင်္ဂလာဆင်း၏။ လယ်ဘာမားတို့ကိုထောက်ပံ့ရာတွင် မျိုးစပါးကိုသာမက မျိုးနွားဆိုပြီး နွားကောင်းနွားသန်များကိုလည်းထောက်ပံ့တော်မူ၏။ နန်းတွင်း၌ သုမင်္ဂလပွဲများကျင်းပရာတွင် အမဲသားမစားသောမင်းညီမင်းသားများကိုသာရွေးချယ်ပြီး ပါဝင်စေခဲ့၏။

မင်းတုန်းမင်းကြီးလက်ထက်အခါကဆိုလျှင် မန္တလေးရွှေမြို့တော်တွင်းသို့ နွားသား မသယ်ဆောင်ရ၊ နွားသားဆို အသေသားပင်စားခွင့်မပေး။ နွားသတ်မှုအတွက် ထောင်ဒဏ်၊ ကြိုးဒဏ်၊ ကြိမ်ဒဏ်၊ ငွေဒဏ်ကျခံစေရန် အပြစ်ဒဏ်ဥပဒေကိုပြဋ္ဌာန်းတော်မူထား၏။ နိုင်းနွားကို သတ်လျှင် ထောင်ဒဏ်ခြောက်လ၊ တစ်ကျပ်သုံးဒင်္ဂါး ၂၀၀–ဒဏ်ထား၏။ ကျွဲနွားသားကို ရောင်းချပေးကမ်းလျှင် ခြောက်လထက်မလွန်သောထောင်ဒဏ်နှင့် တစ်ကျပ်သုံးဒင်္ဂါး ၂၀၀–ထက်မလွန်သော ငွေဒဏ်ဟုသတ်မှတ်၏။ ကျွဲသား၊နွားသားစားလျှင်ကား သုံးလထက်မလွန်သော ထောင်ဒဏ်နှင့် ကျပ်သုံးဒင်္ဂါး ၅၀–ထက်မလွန်သောငွေဒဏ်ထား၏။[*၁] သိမီလိုက်သော ပုဂ္ဂိုလ်များ၏မိန့်ဆိုချက်အရ မင်းတုန်းမင်းကြီးခေတ်က အမဲသားစားသူတို့ မောင်းကျော်ဒဏ် ခံရသည်ဟု သိရ၏။[*၂]

---

*၁ မင်းတုန်းမင်းလက်ထက် နွားကျွဲများကိုသတ်ဖြတ်မှု၊ အသားကိုရောင်းဝယ်မှု၊ စားသောက်မှု ပြစ်ဒဏ် ဥပဒေပုရပိုက်မူ၊ မန္တလေးတက္ကသိုလ်စာကြည့်တိုက်။

*၂ ဦးမာနိတသိရီနှင့် ဦးနန္ဒမာလာတို့၏ စံကင်းဂုရုပ္ပတ္တိကထာ။ (စာမျက်နှာ–၃၇)။ မောင်းကျော်ဒဏ်ဆိုသည်မှာ အမဲသားစားသူဟု စာဆွဲပြီး အရပ်ထဲလှည့်လည်စေသောဒဏ်မျိုးဖြစ်၏ ။

**အင်္ဂလိပ်အုပ်ချုပ်ရေးနှင့်ခွား**

အင်္ဂလိပ်တို့သည် အောက်မြန်မာနိုင်ငံကိုသိမ်းယူပြီးနောက် သက္ကရာဇ်–၁၂၁၄ (အေဒီ–၁၈၅၂)ခုနှစ်၌ ရန်ကုန်ကို အောက်မြန်မာနိုင်ငံ၏မြို့တော်အဖြစ်သတ်မှတ်ခဲ့၏။ ထိုရန်ကုန်မြို့ကို မြို့တော်အဂ္ဂါရပ်နှင့်ညီစေရန်အတွက် ဈေး၊ ဆေးရုံ၊ အုပ်ချုပ်ရေးဆိုင်ရာရုံးများ၊ လူနေအကွက်များ၊ ဥယျာဉ်ပန်းခြံတို့ပါဝင်သော မြို့ပုံစံတစ်ခုကို ဘင်္ဂါလီတပ်ကအင်ဂျင်နီယာဖရေဇာ*[၁] နှင့် အင်္ဂလိပ်ဆေးတပ်က ကျန်းမာရေးအရာရှိ ဒေါက်တာမွန်ဂိုမာရီ*[၂] တို့နှစ်ဦးကို တာဝန်ပေးကာရေးဆွဲပြီး တည်ဆောက်စေခဲ့၏။

အင်ဂျင်နီယာဖရေဇာနှင့် ဒေါက်တာမွန်ဂိုမာရီတို့ကလည်း မြို့တော်အဂ္ဂါရပ်နှင့်အညီ ရုံးပြင်ကန္တား၊ ဈေးဆိုင်၊ ကျောင်း၊ ဘဏ်တိုက်စသည်ရှိရမည်ဟူ၍ သတ်မှတ်ရေးဆွဲပြီး မြို့ပုံစံကို ပန္နက်ရိုက်ခဲ့ကြ၏။ ယင်းတို့ရေးဆွဲသောအစီအစဉ်အတိုင်း သက္ကရာဇ်–၁၂၁၅ (အေဒီ–၁၈၅၃)ခုနှစ်၌ စူရတီကုန်သည်များဈေး(သိမ်ကြီးဈေး)၊ သက္ကရာဇ်–၁၂၁၇(အေဒီ–၁၈၅၅)ခုနှစ်တွင် စကော့ဘဏ်တိုက်၊ သက္ကရာဇ် ၁၂၃၀–ပြည့် (အေဒီ–၁၈၆၈)ခုနှစ်တွင် ချာတာဘဏ်တိုက်၊ သက္ကရာဇ်–၁၂၃၁(အေဒီ–၁၈၆၉)ခုနှစ်တွင် စိန့်ပေါ်သာသနာပြုကျောင်း(ယခု အထက–၆၊ ဗိုလ်တထောင်)၊ သက္ကရာဇ်–၁၂၃၅(အေဒီ–၁၈၇၃)ခုနှစ်တွင် ဘုံဘေဘားမားအထွေထွေရောင်းဝယ်ရေးကုမ္ပဏီ၊ သက္ကရာဇ်–၁၂၃၈(အေဒီ–၁၈၇၆)ခုနှစ်တွင် ရိုလ်းကုမ္ပဏီစသည့်လုပ်ငန်းအဆောက်အအုံတို့ကို ဆောက်လုပ်တည်ထောင်နိုင်ပြီး၊ သက္ကရာဇ်–၁၂၃၉(အေဒီ–၁၈၇၇)ခုနှစ်တွင် ရန်ကုန်မြို့နှင့် ၁၆၁–မိုင်ဝေးသော ပြည်မြို့သို့ပင် ရထားလမ်းဖောက်လုပ်နိုင်ခဲ့ပါသည်။

ရန်ကုန်မြို့တည်စ သက္ကရာဇ်–၁၂၁၄(အေဒီ–၁၈၅၂)ခုနှစ်တွင် လူဦးရေလေးသောင်းခန့်ရှိပြီးနောက်၊ သက္ကရာဇ်–၁၂၃၄(အေဒီ–၁၈၇၂)ခုနှစ် နှစ်ပေါင်း ၂၀–ခန့်ကြာသောအခါ မြို့လူဦးရေ တစ်သိန်းကျော်ရှိလာ၏။ ထိုသက္ကရာဇ်–၁၂၃၄ (အေဒီ–၁၈၇၂)ခုနှစ်တွင် အင်္ဂလိပ်အစိုးရသည် ရန်ကုန်မြို့ သိမ်ကြီးဈေးမြောက်ကျုံးနားတွင် အမဲဈေးဟု သားသတ်ဈေးတစ်ခုဆောက်လုပ်ရန် စီစဉ်ခဲ့သည်။ ရန်ကုန်မြို့၌ အမဲဈေးဖွင့်လှစ်မည့်အကြောင်းကို သက္ကရာဇ် ၁၂၃၄–ခုနှစ်၊ ကဆုန်လကွယ် ၂–ရက် (အေဒီ ၈၊ မေလ၊ ၁၈၇၂–ခုနှစ်)ထုတ် မြန်မာသတင်းစာ၊ အတွဲ–၁၊ အမှတ်–၁။ (The Burma News) မှာ*[၃] အောက်ပါအတိုင်းဖော်ပြခဲ့၏။

---

*[၁] Lieuteanant A. Fraser. နောင်အခါ A. Fraser (အေ ဖရေဇာ)ကိုဂုဏ်ပြုသောအားဖြင့် ရန်ကုန်မြို့ရှိ ယခု အနော်ရထာလမ်းကို ရှေးက (၁၉၆၅–ခုနှစ်အထိ) 'ဖရေဇာလမ်း' ဟုခေါ်တွင်ခဲ့ကြသည်။

*[၂] Dr. William Montgomerie. နောင်အခါ Dr. William Montgomerie (ဒေါက်တာ ဝီလျံ မွန်ဂိုမာရီ)ကို ဂုဏ်ပြုသောအားဖြင့် ရန်ကုန်မြို့ရှိ ယခု ဗိုလ်ချုပ်အောင်ဆန်းလမ်းကို ရှေးက (၁၉၆၅–ခုနှစ်အထိ) 'မွန်ဂိုမာရီလမ်း' ဟု ခေါ်တွင်ခဲ့ကြသည်။

*[၃] ဤမြန်မာသတင်းစာ (The Burma New's) သည် မြန်မာဂေဇက် (The Burmah Gazette) သတင်းစာကို အမည်ပြောင်းပြီး အေဒီ ၁၈၇၂–ခုနှစ်၊ မေလ ၈–ရက် (၁၂၃၄–ခုနှစ်၊ ကဆုန်လကွယ် ၂–ရက်)နေ့တွင် စတင်ထုတ်ဝေခဲ့ခြင်း ဖြစ်သည်။

## ရန်ကုန်သတင်း၊ အမဲဈေးတည်ထောင်ကြောင်း

ရန်ကုန်မြို့ သိမ်ကြီးဈေးမြောက် ကျုံးနားမှာ ဈေးရုံအသစ်တစ်ခုတည်ထောင်၍ အစိုးရအမိန့်နှင့် အမဲသားများကိုရောင်းချလေသည်။ သိမ်ကြီးဈေးထဲမှာ နွားများများ သတ်လျှင် အမဲပေါမည်စိုးသောကြောင့် တစ်နေ့လျှင် မည်မျှသာသတ်ရမည်ဟူ၍ ဤသည်တို့ အချက်ထားကြသည်နှင့် အလွတ်ရောင်းစားလိုသူတို့က အစိုးရမင်းထံ အမိန့်ခံပြီးလျှင် ထွက်သမျှရောင်းစားရအောင် အမဲသားဈေးသစ်တည်လုပ်သည် ဟု ကြားသိရသည်။ ဤအရာကို မြန်မာ့ကျမ်းဂန်များတွင် သာသနာတော်မရှိမီ ဗာရာဏသီပြည်သည် သူရုန္ဒရပြည်တွင်သောအခါ၌ ထိုပြည်သည် အလွန်စည်ကား လှ၏။ စည်ကားခြင်းအကြောင်းမှာ သေနှင့်အမဲပေါခြင်း၊ ပြည့်ရှင်မင်းလည်း တရား စောင့်တော်မူ၍ ပြည်သူတို့အား သနားထောက်မကြည့်ရှုတော်မူခြင်းကြောင့် ဤပြည်သို့ ရောက်သောသူတို့ သောက်စားပျော်ပါး၍ မိမိတို့ရွာသို့ မပြန်လို၊ မလာသေးသော သူတို့လည်း ပျော်ပါးသာယာကြောင်းကိုကြား၍ များစွာလာရောက်လိုကြ၏ဟု နိပါတ် တော်များ၌လာသည်။ ထိုကြောင့် ဤရန်ကုန်မြို့သည်လည်း သေနှင့်အမဲ ယခုထက် ပေါများလျှင် ပို၍စည်ကားဖွယ်ရှိ၏။ *၁

အမဲဈေးသစ်ဖွင့်ပြီးနောက်တွင် အင်္ဂလိပ်လက်အောက်ရှိ ရန်ကုန်မြို့အပါအဝင် မြို့ရွာအနှံ့ အမဲသားသတ်လိုင်စင်နှင့် အမဲသားရောင်းချခွင့်များကို တရားဝင်ခွင့်ပြုလိုက်လေရာ ထိုအခါမှစ၍ အောက်မြန်မာပြည်၌ တရားဝင်နွားသတ်ခွင့်ဖြစ်ပေါ်လာခဲ့ပါသည်။

ဤသို့ဖြင့် သက္ကရာဇ် ၁၂၃၄–ခုနှစ်ကပင် အင်္ဂလိပ်တို့အုပ်ချုပ်နေသောအောက်မြန်မာနိုင်ငံ၌ အမဲဈေးပေါ်လာပုံ၊ အမဲသားသတ်ခွင့်၊ စားခွင့်ရပုံများကို သိရှိတော်မူပြီးဖြစ်သော အရှင်ဉာဏ သည် ယခုအထက်မြန်မာနိုင်ငံကို အင်္ဂလိပ်ကအုပ်ချုပ်တော့မည်ဆိုလျှင် အောက်မြန်မာပြည်မှာ ကဲ့သို့ အမဲဈေး၊ အမဲသတ်ခွင့်စသည်ဖြစ်ပေါ်လာမည့်အရေးကို အလွန်စိုးရိမ်တော်မူခဲ့သည်။ သို့ဖြစ်၍လည်း အရှင်ဉာဏသည် အင်္ဂလိပ်တို့အုပ်ချုပ်ကြမည့်အချိန်မှစ၍ မိမိလည်း အမဲသား မစားတော့ပြီ။ ကျန်သီတင်းသုံးဖော်ကိုယ်တော်များကိုလည်း အမဲသားမစားကြပါနှင့်တော့ဟု မေတ္တာရပ်ခံတော်မူကာ အမဲသားရှောင်ကြဉ်ရေးတရားကို စတင်ဟောကြားတော်မူခဲ့ခြင်းဖြစ်ပါ သည်။ *၂

---

*၁ မောင်သစ်လွင်(လှထု)၏ ရှေးဦးမြန်မာသတင်းစာများ။ ပုဂံစာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၁–ခုနှစ်။ (စာမျက်နှာ–၁၁၀)။

*၂ ထိုစဉ်အခါက နွားသားရှောင်ကြဉ်ရေးကိုရည်မျှော်၍ နရိန္ဒာဘိသိရီသဒ္ဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်နာမံရှိတော်မူသော မန္တလေးမြို့ ဆီးပန်းနီဆရာတော်ကြီး(အေဒီ ၁၈၁၁–၁၈၈၈)သည် လူ့ပြည်ပျော်ပါးတို့အား ကျွဲနွား၏ ကျေးဇူးထားပုံ လင်္ကာကို ရေးသားတော်မူခဲ့ဖူးပါသည်။ ဤလင်္ကာကို ဓိဝဏ္ဏယီဦးစံလှ၏ အမဲသားနှင့်ဤနိုင်ငံ။ နာနာနယဖြန့်ချိရေး၌ ရန်ကုန် မြို့။ ၁၉၆၂–ခုနှစ်။ (စာမျက်နှာ–၁၃၉)၌ရှုပါ။

**နွားမေတ္တာစာ**

အရှင်ဉာဏ၏ နွားသားမစားသင့်ကြောင်းတရားကိုနာကြားကြရသောကြောင့် ရှင်ရှင်လူလူ အပေါင်းတို့သည် နွားသတ္တဝါတို့အပေါ် လွန်စွာသနားကရုဏာဖြစ်ကြသည်။ အရှင်ဉာဏ မေတ္တာရပ်ခံတော်မူသည့်အတိုင်း နွားသားစားသောက်မှုမှ ရှောင်ကြဉ်ကြသည်။ ဒကာ, ဒကာမ အပေါင်းတို့ကလည်း နွားသားအမဲသားမစားသင့်ကြောင်းကို တစ်ယောက်ကတစ်ယောက် တစ်ဆင့်ပြီးတစ်ဆင့် ကမ်းလှမ်းဟောပြောကြကုန်၏။

ထိုအခါ မုံရွာမြို့ပေါ်ရှိ လူကြီးလူကောင်းဒကာ,ဒကာမအပေါင်းတို့က အရှင်ဉာဏထံသို့ နွားသားရှောင်ကြဉ်ရေးဆိုင်ရာ စာတစ်စောင်ပေတစ်ဖွဲ့ရေးသားတော်မူပါဟု တောင်းပန်လာကြပါသည်။ မုံရွာမြို့ လူကြီးလူကောင်းအပေါင်းတို့၏တောင်းပန်ချက်အရ အရှင်ဉာဏသည်-

စက်လေးစုံလွင်သာ၊ မင်္ဂလာသမိုက်၊ အလုံမြို့ အောက်တိုက်ဝယ်၊ သိုက်မြိုက်
သည့်ဌာန၊ မုံရွာမြို့ဒေသဟု၊ ပါကဋကျော်ညာသော၊ ရွာမဟေရပ်ကြီးက၊ နတ်တီးသည့်
စည်မှုရိုးကဲ့သို့၊ ရှည်အကျိုးဖြစ်ပွားရန်၊ တရားရင်းသုတ္တန်ကို၊ ထုတ်ပြန်ကာ
လင်းလိုက်မည်၊ နားသွင်း၍ထောင်ကြပါ-

အစချီသော နွားမေတ္တာစာကို ရေးသားတော်မူခဲ့ပါသည်။[*၁]

နွားမေတ္တာစာသည် မုံရွာနယ်တစ်ဝိုက်၌လွန်စွာပြန့်နှံ့ခဲ့၏။ မဖတ်ဖူးသူမရှိလောက်အောင် ဖြစ်ခဲ့သည်။ ဤမေတ္တာစာကို ဖတ်ရှုကြားသိရသူတိုင်း နွားကိုမေတ္တာထားကာ အထူးသနားကြ၍ နွားသားမစားကြတော့ဘဲ ရှောင်ကြဉ်ကြကုန်သည်။ ထို့နောက် ဤနွားမေတ္တာစာကို တစ်ဆင့်ပြီးတစ်ဆင့် တစ်ဦးကတစ်ဦး ကူးယူပြီးဝေငှကမ်းလှမ်းရာ မုံရွာ၊ ဒီပဲယင်း၊ ဘုတလင်၊ အလုံ စသည့်နီးနားပတ်ဝန်းကျင်မြို့ရွာတို့၌သာမက ကာလကြာမြင့်လတ်သော် အထက်အောက် မြန်မာနိုင်ငံအနှံ့ ပျံ့နှံ့သွားခဲ့လေသည်။[*၂]

**ခန္ဓာ,အာယတနတရားဟောတော်မူခြင်း**

အရှင်ဉာဏသည် ပါတော်မူသည်နှင့် တိုင်းပြည်အရေးရှုပ်ထွေးနေရကာ သင်္ဂြိုဟ်ဦးဝိုင်း ကျောင်း၌ စာဝါချမှုကိုရပ်ဆိုင်းတော်မူခဲ့ရသည်။ အကြောင်းမှာ မင်းပြောင်းမင်းလွဲကာလဖြစ်၍ အဖမ်းအဆီးထူပြောလာ၏၊ အစစ်အဆေးအမေးအမြန်း များလာ၏။ သူပုန်သူကန်ပေါ်များကာ ခရီးသွားလာရေး ခက်ခဲလာသည့်အတွက် စာသင်သားသံဃာတော်များ မိမိတို့ရပ်ရွာသို့

[*၁] လယ်တီဆရာတော်ကြီး၏ ဂန္ထိရကဗျာကျမ်း။ ၁၉၅၆-ခုနှစ်။ (စာမျက်နှာ ၄၃-၅၄)။

[*၂] ဤမေတ္တာစာကိုတစ်ဆင့်ကူးယူကြရာတွင် မဟာဝိသုဒ္ဓါရာမဆရာတော်ကြီး၏ ဂေါဏမာတိကာသြဝါဒကထာကျမ်း (စာမျက်နှာ ၅-၁၁)တွင် လယ်တီဆရာတော်ကြီး၏ နွားမေတ္တာစာ အစမှအဆုံးကူးယူဖော်ပြထားသည်။ မေတ္တာစာရေးသူ၏ ဘွဲ့အမည်ကိုကား 'ပဏ္ဍိတသုခမိန်' ဟူ၍ဖော်ပြထားသည်။ မဟာဝိသုဒ္ဓါရာမဆရာတော်ဘုရားကြီး၏ ဂေါဏမာတိကာ သြဝါဒကထာ။ အိန္ဒိယစာပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၂၆၃-ခုနှစ်။ (စာမျက်နှာ-၅)။

အလျှင်အမြန်ပြန်ကြွခဲ့ကြသောကြောင့်ဖြစ်သည်။ စလင်းစကုမှလာရောက်၍ စာသင်ကြသော သံဃာများလည်း မိဘရပ်ထံပြန်ကြွကြရာ အရှင်ဉာဏထံတော်ပါး၌ စာလိုက်သံဃာနည်းပါး သွားသည်။

ထိုအချိန်တွင် အရှင်ဉာဏသည် ခမည်းတော်ကြီးကွယ်လွန်စဉ်ကပင် ဝဲ့ကွက်စရာသံယောဇဉ် မရှိတော့သည့်အတွက် တရားဓမ္မနှင့်မွေ့လျော်၍ ပဋိပတ်ဘက်ကိုစိတ်အားသန်နေခဲ့သည်။ ဦးဝိုင်း ကျောင်းတွင် မိမိနှင့်အတူ တပည့်ရင်းရှင်ကေတုတစ်ပါးကိုသာ ပြုစုစောင့်ရှောက်စေရန်ခေါ်ထားပြီး ကျန်သံဃာတော်များကို ရွှေစည်းခုံကျောင်းတိုက်သို့ပြောင်းရွှေ့နေထိုင်စေခဲ့သည်။ ကျောင်းသို့ လာရောက်ကြသော ဒကာ,ဒကာမများကိုလည်း ခေတ်ကာလမကောင်းသည်ကိုအကြောင်းပြုကာ ကုသိုလ်ကောင်းမှုကို ကိုယ်ပိုင်ဥစ္စာအဖြစ်မြှုပ်နှံကြရန် ဒါနကထာ,သီလကထာတရားများကို ဟောကြားတော်မူခဲ့၏။ ထို့ပြင် ခန္ဓာ,အာယတန,ဓာတ်,သစ္စာတရားတို့ကို ရှေးဦးအစ စမ်းသပ် ဟောကြားတော်မူရာ 'ဦးဝိုင်းဘုန်းကြီး တရားဟော,တရားပြ အလွန်ပဲကောင်းပါသည်'ဟု ရပ်ရွာ၌ ကျော်ကြားထင်ရှားခဲ့ပြန်ပါသည်။*၁

## တစ်ကိုယ်တည်းနေလိုခြင်း

အရှင်ဉာဏသည် မိမိ၏ကျောင်း၌ပရိသတ်ရှိနေ၍ ဆိတ်ငြိမ်မှုမရသောကြောင့် လောက မာရဇိန်တောင်ကုန်းဘုရားဘေး ဆိတ်ငြိမ်ရာသို့ခိုဝင်ကာ ကမ္မဋ္ဌာန်းအလုပ်ဖြင့်နေတော်မူခဲ့ပါ သည်။ ကာလအတန်ကြာသော် ထိုတောင်ကုန်းဘုရားဘေးရှိနေရာကလေးကိုပင် ပရိသတ်က လိုက်လာကြပြန်သဖြင့် ထိုနေရာထက်ပို၍ဆိတ်ငြိမ်ပြီး လူသူလေးပါးလိုက်မလာနိုင်လောက်သည့် ခပ်ဝေးဝေးနေရာကို ရှာဖွေတော်မူခဲ့ပါသည်။

ပရိသတ်ဟူသည် ကေစာရကမ္မဋ္ဌာနယာနိကပုဂ္ဂိုလ်အဖို့ ရန်သူကြီးပင်။ တရားအားထုတ် လိုသောယောဂီပုဂ္ဂိုလ်သည် ပရိသတ်နည်းပါးလေ တရားအားထုတ်ရကောင်းလေပင်။ သာသနာ့ သမိုင်းကြောင်း၌ အလွန်ထင်ရှားခဲ့သော ပခန်းကြီး ရွှေမင်ဆရာတော်ကြီးဆိုလျှင် အလုပ်အကျွေး သူတော်တစ်ယောက်နှင့်နေသည်ကို စစ်ကိုင်း တောင်ဘီလာဆရာတော်က 'ပရိသတ် နည်းလှ သည်၊ ကြောက်တော်မမူပါသလော'ဟုမေးရာ ရွှေမင်ဆရာတော်က 'ကြောက်၍ပင် ပရိသတ် နည်းနည်းနှင့်နေပါသည်'*၂ ဟု ပြန်ကြားလေသည်ကို ထောက်ဆ,ပါက ပရိသတ်နည်းပါးမှု၏ အကျိုးကို သိနိုင်သည်။

မဟာဇနကဇာတ်တော်လာ 'ဝိဝါဒပ္ပတ္တော ဒုတိယော၊ ကေနေကော ဝိဝဒိဿတိ။ မိမိအပြင် ဒုတိယလူအဖော်တစ်ဦးရှိလာပါက ငြင်းခုံစရာဖြစ်လာတတ်သည်' (ဇာ၊၌၊၁၊၇၉။) ဟူသောစကားကို တွင်းသင်းမင်းကြီးက 'နှစ်ခုမြောက်စုံ၊ ဒွေဘော် ကြုံသော်၊ ငြင်းခုံရန်ပွဲ၊

*၁ ရွှေမှံတင်၏ လယ်တီနေမင်းကျမ်း။ (စာမျက်နှာ-၆၄)။

*၂ အရှင်ကေလာသ၏ စစ်ကိုင်းသာသနာဝင်။ ၁၉၇၉-ခုနှစ်။ (စာမျက်နှာ-၁၀၁)။

စည်လေမြဲတည်း’ဟု ဇနကပျို့၌ အဖော်ရှိက ငြင်းဖော်သာဖြစ်နိုင်ကြောင်းကို ပို၍သရုပ်ပေါ်လွင် စေရန် စပ်ဆိုထားခဲ့ပါသည်။

ထို့ပြင် တွင်းသင်းမင်းကြီးက ‘ဦးထဲပြည့်သာ၊ နိဗ္ဗာန်ရှာသည့်၊ သဒ္ဓါစင်ငေါ်၊ ရှေးသူတော်တို့ ရွှေဘော်မဆံ၊ လူ့ထံမမှီ၊ တကိုယ်ထီးဖြင့်၊ ချောက်ကြီးကမ်းပြင်၊ သေရှင်မခန့်၊ စွန့်ကြဲစမြဲ’ဟု တရားရှာမှီးလိုသူမှာ တစ်ကိုယ်တည်းသာ တောရချောက်ကြီးတို့၌ တရားရှာအပ်ကြောင်းကို လည်း စပ်ဆိုပြန်ပါသည်။*[၁]

ထေရဂါထာ၌လည်း–

ယဥ္စ အညေ နရက္ခန္တိ၊ ယော စ အညေ နရက္ခတိ။
သ ဝေ ဘိက္ခု သုခံ သေတိ၊ ကာမေသု အနပေက္ခဝါ။

‘မိမိကို သူတစ်ပါးက စောင့်ရှောက်ခြင်း၊ မိမိကလည်း သူတစ်ပါးကို စောင့်ရှောက်ရခြင်း ဤစောင့်ရှောက်ခြင်းနှစ်မျိုးတို့မှကင်း၍ မိမိကိုလည်း သူတစ်ပါးက မစောင့်ရှောက်မတွယ်တာ၊ မိမိကလည်း အခြားသူကို မစောင့်ရှောက်ရခြင်းဟူသော အနပေက္ခသဘောသည် အလွန်ချမ်းသာ သော သဘာဝအဖြစ် စင်စစ်ကေန်မုန်လှသည်’ (ထေရ၊ ၃၀၇၊ ထေရ၊ဋ္ဌ၊၂၊၂၁၄၊)ဟု ဟောထား တော်မူလေရာ တရားရှာမှီးလိုသူတို့သည် အဖော်မလှောက် တစ်ယောက်ထီးထီး လေးညှို့မှ လွှတ်ပြီးသော မြားကဲ့သို့လည်းကောင်း၊ အဖွဲ့အသင်းမှရှောင်ခဲ့သော ဆင်ပြောင်ကြီးကဲ့သို့လည်း ကောင်း၊ ကြံ့၏ဦးချိုကဲ့သို့လည်းကောင်း ကောစာရတစ်ပါးထီးထီးနေထိုင်ကျင့်သုံးခြင်းသာ အမှန်ဆုံးနှင့် အကောင်းဆုံးနည်းဖြစ်ပါသည်။

## မြို့ရွာနိဂုံးတို့၏ အပြစ်များ

အရှင်ဉာဏသည် တစ်ပါးသူတို့အား ခန္ဓာ, အာယာတန, ဓာတ်, သစ္စာတရားတို့ကို ဟော၍ သစ္စာလေးရပ်တရားမြတ်ကိုရှာမှီးရန်တိုက်တွန်းတော်မူသကဲ့သို့ ကိုယ်တော်တိုင်လည်း သစ္စာလေးရပ်တရားမြတ်ကိုရပါစေခြင်းအကျိုးငှာ ပရိသတ်အခြွေအရံတို့ကိုဖယ်ခွာပြီး ဆိတ်ငြိမ်ရာ ဝိဝေကအရပ်သို့ချဉ်းကပ်၍ တစ်ကိုယ်တည်း တရားဘာဝနာကျင့်သုံး အားထုတ်တော်မူခဲ့ပါသည်။

ထိုသို့အားထုတ်ရာတွင် ရှေးဦးစွာ ကျောင်းကန်မြို့ရွာကို စွန့်ပယ်နိုင်ရန်အတွက် မြို့ရွာ၏ အပြစ်ကို အောက်ပါအတိုင်းဆင်ခြင်တော်မူခဲ့ပါသည်။

> မြို့ရွာနိဂုံးများသည် ကာမဂုဏ်ထူပြောသောအရပ်ဌာနများဖြစ်၍ ဝိဝေကကို ရနိုင်ရန် လွန်စွာခဲယဉ်းစွာ၏။ ဝိဝေကကိုမရနိုင်သောဌာန၌ရပ်တည်၍ ဈာန်, မဂ်, ဖိုလ် တရားများကို အားထုတ်သော်လည်း ရနိုင်ရန်ခဲယဉ်းချေသည်။ ထို့ကြောင့် မြို့ရွာ နိဂုံးသည် လူသူတော်ကောင်းတို့၏ နက်နဲသောတရားတော်ကြီးများကိုအားထုတ်ရန် ဌာနများ မဟုတ်။

---

*[၁] မဟာစည်သူ၏ မဟာဇနကပျို့။ (အပိုဒ်–၂၃၇)။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၁–ခုနှစ်။ (စာမျက်နှာ–၁၀၃)။

ထိုစကား မှန်၏။ လူတို့ပျော်နေကြရာဖြစ်သော မြို့ရွာနိဂုံးများသည် ကာမဂုဏ်တရားနှင့် ကာမတဏှာများကို ကြီးပွားအောင်မွေးမြူရာ မြို့ကြီးခြံကြီးတွေမည်၏။ အိမ်ရာထောင်မှု သားမွေးမှု လက်ထပ်မင်္ဂလာပြုမှုများသည် လူမရှိသောတောထဲမှာ မဖြစ်နိုင်၊ မြို့တွင်းရွာတွင်းမှာသာ ဖြစ်ကြကုန်သည်။ ထိုမှတပါး မြို့ရွာနိဂုံးများသည် ကိလေသာတည်းဟူသော ဓားပြသူခိုးကြီးတို့၏ တိုက်ခိုက်ရာဌာနများဖြစ်၏။ ရူပါရုံအစရှိသော ဗာဟိရာယတနတရားတို့၏သောင်းကျန်းရာဌာနလည်းဖြစ်၏။

ထိုစကားမှန်၏။ မိန်းမစသောသတ္တဝါတို့သည် မိမိတို့၏ကိုယ်မှာရှိသော ရူပါရုံစသော ကာမဂုဏ်ငါးပါးတို့ကို အမွှမ်းတင်နိုင်သမျှ တသသပြုပြင်၍ ဗန်းတင်ပြီးလျှင် ယောကျ်ားဖြစ်သော သတ္တဝါတို့၏စိတ်နှလုံးကို ပျက်ပြုန်းလုမတတ် နှိပ်စက်တိုက်ဖျက်ကြကုန်၏။ ယောကျ်ားဖြစ်သော သတ္တဝါတို့သည်လည်း မိမိတို့၏ကိုယ်မှာရှိသော ရူပါရုံစသော ကာမဂုဏ်ငါးပါးတို့ကို အမွှမ်းတင်နိုင်သမျှ တသသပြုပြင်၍ ဗန်းတင်ပြီးလျှင် မိန်းမဖြစ်သောသတ္တဝါတို့၏စိတ်ကို နှိပ်စက်တိုက်ဖျက်ကြကုန်၏။ မိန်းမကိုအာရုံပြု၍ ယောကျ်ားသန္တာန်မှာရှိသော ကိလေသာတို့သည် လွန်စွာသောင်းကျန်းထကြွကြကုန်၏။ ယောကျ်ားကိုအာရုံပြု၍ မိန်းမတို့သန္တာန်မှာရှိသော ကိလေသာတို့သည်လည်း လွန်စွာသောင်းကျန်းထကြွကြကုန်၏။ ထိုသို့ အချင်းချင်းအပူတိုက်လျက် ကိလေသာမီးမြိုက်သောအမှုများသည် လူမရှိသောတောတောင်များနှင့်မဆိုင်၊ မြို့ရွာနိဂုံးများနှင့်သာဆိုင်ချေသည်။*၁

ဤသို့ မြို့ရွာနိဂုံး၏အပြစ်များကိုဆင်ခြင်နှလုံးသွင်းတော်မူပြီးသောအခါ သူတော်ကောင်းတရားကိုတကယ်အားထုတ်နိုင်ရန်အတွက် တောစွယ်တောင်တန်း ချောက်ကမ်းလျှိုမြောင် ချောက်နှင့်ဥမင် တောင်စခန်းရက္ခမူလဌာနများသို့ ကေစာရီအဖော်မပါ တစ်ကိုယ်တည်းသာ ခိုဝင်လိုသောအကြံများသည် အရှင်ဉာဏ၌ အောက်ပါအတိုင်းဖြစ်ပေါ်လာပြန်လေသည်။

'ငါသည် ပန်းမျိုးစုံတို့ဖြင့်တထုံထုံကြိုင်လှိုင်လျက် အမျိုးမျိုးသောသစ်ပင်တို့ဖြင့် အရွက်စိပ်စိပ် နေရိပ်နေပြောက် နေရောင်ခြည်မကျောက်သော လူသူမနီး တောမြိုင်ကြီးအတွင်းမှာ သန့်ရှင်းစင်ကြယ်မွေ့လျော်ဘွယ်ကောင်းသော ဂူလိုဏ်များသို့ကပ်၍ ဖြူဖြောင့်သောစိတ်ကောင်းစိတ်ကြည်တို့ကို မွေးမြူပြီးလျှင် သမထနိမိတ် ဝိပဿနာနိမိတ်များကိုအာရုံပြုလျက် နိဗ္ဗာန်ချမ်းသာနှင့် မြန်စွာနီးရလေအောင် ဝသီမြောက်သော ဈာန်ချမ်းသာဖြင့် ပျော်ပါးစွာမနေရလေရ၊ ဈာန်ချမ်းသာဖြင့် ပျော်ပါးစွာနေစမ်းချင်ပါဘိသည်'*၂ -ဟူ၍ဖြစ်သည်။

*၁ လယ်တီဆရာတော်၏ ဂန္ထိရကဗျာကျမ်း။ ၁၉၅၆-ခုနှစ်။ (စာမျက်နှာ-၁၈၆)။

*၂ လယ်တီဆရာတော်၏ ဂန္ထိရကဗျာကျမ်း။ ၁၉၅၆-ခုနှစ်။ (စာမျက်နှာ-၁၉၁)။

အိုးတလုံးတောရ[*၁]

ဤသို့လျှင် မြို့ရွာကိုစွန့်ခွာ၍တောတောင်ရိပ်ခိုဝင်ရန် သမ္မာဆန္ဒထက်သန်နေတော်မူသော ဘုန်းတော်ကြီးအရှင်ဉာဏသည် မိမိ၏ကြံရွယ်ချက်ကို အကောင်အထည်ဖော်ရန်အလို့ငှာ မုံရွာမြို့၏မြောက်ဘက် ရှောက်ခါးရွာသို့ကြွရောက်တော်မူရာ ခရီးလမ်းအကြား၌တည်ရှိသော တလုံးတောရသို့ ဝင်ရောက်တော်မူခဲ့ပါသည်။

ထိုစဉ်အခါက တလုံးတောရတွင် အရှင်ဝါယာမိန္ဒဘွဲ့အမည်ရှိမထေရ်ကြီးတစ်ပါး သီတင်းသုံးနေတော်မူသည်။ အရှင်ဝါယာမိန္ဒသည် အရှင်ဉာဏထက်သိက္ခာဝါကြီးပြီး သမထဘာဝနာကို နှစ်များစွာ အားထုတ်တော်မူခဲ့ပါသဖြင့် သမာဓိအတော်ရကာ အချို့က ဣဒ္ဓိပါဒ်တစ်ခုခုရနေသယောင် ထွက်ရပ်ပေါက်ပုဂ္ဂိုလ်ဖြစ်နေသယောင် ပြောဆိုကြ၏။

တလုံးတောရကို စတင်တည်ထောင်သောပုဂ္ဂိုလ်ကို မသိမီလိုက်သော်လည်း အရှင်ဝါယာမိန္ဒ လက်ထက်မတိုင်မီက ထိုတောရ၌ ဘုန်းကြီးဦးလင်းဟု လူအမည်နှင့်ထင်ရှားသော နာမည်ကျော် ဓမ္မကထိကဆရာတော်တစ်ပါးရှိခဲ့၏။ ထိုခေတ်က 'ဆား–ဆားလင်း၊ ဓား–ဒီပဲယင်း၊ တရား–ဦးလင်း'ဟုပင်ဆိုစမှတ်ပြုလောက်အောင် ဆားတွင် မုံရွာမြို့အနောက်ဘက်ကမ်း ဆားလင်းကြီးမြို့မှထွက်သော ဆားသည် ထင်ရှားကျော်ကြားခဲ့၏။ ဓားတွင်လည်း ဒီပယင်းကလုပ်သော ဓားကို ဘယ်ဓားကမှမမီဟု ကျော်ကြားခဲ့၏။ တရားဟောရာ၌လည်း တလုံးတောရဘုန်းကြီး ဦးလင်းသည် လေ့ကျူးမုံရွာတစ်ဝိုက်တွင် တရားဟောအလွန်ကောင်းသည်ဟု နာမည်ကျော်ခဲ့၏။ တလုံးတောရတွင် ဦးလင်းမရှိသည့်နောက် လယ်ဇင်ရွာ စပယ်ရုံကျောင်း၌သီတင်းသုံးနေသော အရှင်ဝါယာမိန္ဒ ကြွရောက်ကာ သီတင်းသုံးနေခြင်းဖြစ်၏။

တလုံးတောရတွင် မန်ကျည်းပင်ကြီးများ အထူးပေါများပြီး ရှေးကတည်ထားခဲ့သော ရှစ်မျက်နှာစေတီတော်တစ်ဆူရှိ၏။ ထိုစေတီ၏အနောက်မျက်နှာအာရုံခံတွင် ရှေးကသမုတ်ခဲ့သော သိမ်ရှိ၏။ တောရအတွင်း၌ ကန်ကြီးတစ်ကန်မကလည်းရှိသည်။

---

[*၁] တလုံးတောရကျောင်းသည် မုံရွာမြို့ သာစည်လမ်း၊ သာစည်ဈေးအနီး ဘုန်းစိုးရပ်ကွက်၌တည်ရှိသည်။ ဆယ့်ငါးထမ်းခန့်ဆံ့သော ရာဝင်အိုးကြီးတစ်လုံးတည်ထားသောတောရဖြစ်၍ အိုးတလုံးတောရဟု ခေါ်တွင်ခြင်းဖြစ်သည်။ ရှေးအခါက သေတ္တာစသည်ထက် အိုးအတွင်းပစ္စည်းများသိမ်းထားလေ့ရှိသဖြင့် ကျောင်းပိုင်ပစ္စည်းများထည့်ရန် တည်ထားသော အိုးကြီး ဖြစ်ဟန်တူသည်။ တလုံးတောရအတွင်းရှိ ရှစ်မျက်နှာစေတီကို ရှေးက တလုံးစေတီဟုခေါ်ကြ၏။ ယခုအခါ ဆုတောင်းပြည့်တလုံးကမ္ဘာအေးရှစ်မျက်နှာကိုးဆူစေတီဟုဘွဲ့ချီထားပါသည်။ တလုံးတောရ၌ အရှင်ဝါယာမိန္ဒ သီတင်းသုံးပြီးသည့်နောက် ကျောင်းထိုင်ဘုန်းကြီးအဆက်ပြတ်သွား၍ ၁၃၁၉–ခုနှစ်၊ မုံရွာမြို့ မြို့မရွှေဂူတိုက်မှ ဘုန်းကြီးဦးသီရိန္ဒ သည် အိုးတလုံးတောရသို့ ကြွရောက်သီတင်းသုံးတော်မူခဲ့ပါသည်။ ၁၃၄၈–ခုနှစ်၌ ဦးသီရိန္ဒ ပြန်လွန်တော်မူသဖြင့် ဆရာတော်ဦးသံဝရ သီတင်းသုံးပါသည်။ ၁၃၄၈–ခုနှစ်တွင် ဦးသံဝရ ပြန်လွန်တော်မူ၍ ဦးသုဇာတ၊ ၁၃၅၄–ခုနှစ်တွင် ဦးသုဇာတ ပြန်လွန်သဖြင့် ဦးဇနကသည် ၁၃၅၅–ခုနှစ်မှစ၍ သီတင်းသုံးလျက်ရှိပါသည်။ ဆရာတော်ဦးသီရိန္ဒလက်ထက် တွင် တလုံးတောရကျောင်းမြေကို လူနေရပ်ကွက်သို့ခွဲဝေပေးပြီး ထိုရပ်ကွက်ကို ဘုန်းစိုးရပ်ဟု ခေါ်တွင်စေခဲ့သည်။ တလုံးတောရအကြောင်းကို ဆရာတော်ဦးသီရိန္ဒထံမှ (၁၀–၈–၁၉၈၄)နေ့တွင်လည်းကောင်း၊ ဆရာတော်ဦးဇနကထံမှ (၄–၂–၁၉၉၈)နေ့တွင်လည်းကောင်း မေးမြန်းခဲ့ခြင်းဖြစ်ပါသည်။

ထိုတလုံးတောရမှ တောင်ဘက်သုံးဖာလုံခန့်အကွာတွင် ဆူးချုံသစ်ပင်များစွာပေါက်ရောက်လျက်ရှိသော တောကြီးတစ်တောတည်ရှိနေ၏။ ထိုတောကြီးအတွင်း ရှောက်ခါးရွာသားများ မြေရှင်းကာ လယ်လုပ်ခဲ့ဖူး၏။ မြေကြမ်းသဖြင့် လယ်တည်ထွင်၍မရခဲ့ကြပေ။ ထိုသို့ လယ်တီဖူးသောနေရာဖြစ်၍ လယ်တီတောဟုလည်းခေါ်ကြ၏။ အချို့ကမူ ထိုတောကြီး၏တောင်ဘက်တွင် ရှေးအစဉ်အဆက်ကပင်တည်ရှိခဲ့သော အင်းကြီးလေးအင်း[*၁] ၌အပါအဝင်ဖြစ်သော လယ်တီအင်းကိုအကြောင်းပြု၍ ဆူးချုံသစ်ပင်ကြီးငယ်များစွာပိတ်ဖုံးနေသော ထိုတောကြီးကို လယ်တီတောကြီးဟုလည်းခေါ်တွင်ကြောင်း အမှတ်အသားရှိပါသည်။[*၂]

အရှင်ဉာဏသည် ထိုလယ်တီတောကြီးအကြောင်းကိုသိလိုသောကြောင့် တလုံးတောရဘုန်းကြီးအရှင်ဝါယာမိန္ဒထံ သွားရောက်မေးမြန်းလျှောက်ထားခြင်းဖြစ်သည်။ အရှင်ဝါယာမိန္ဒက လယ်တီတောကြီးအကြောင်းကို သိရှိသမျှမိန့်တော်မူပြီးလျှင် အရှင်ဉာဏအလိုရှိသလိုဖြစ်စေရန် အာမခံတော်မူခဲ့ပါသည်။ အရှင်ဉာဏသည် တလုံးတောရဘုန်းကြီးနှင့် ဆွေးနွေးဖွယ်ရှိသည်များကို ဆွေးနွေးပြီး တလုံးတောရနှင့်တစပ်တည်းတည်ရှိနေသော လယ်တီတောကြီးကို အပြင်ဘက်မှ လှည့်လည်ကြည့်ရှုအကဲခတ်ပြီး သင်္ဂြိုဟ်ဦးဝိုင်းကျောင်းသို့ပြန်ကြွတော်မူခဲ့ပါသည်။[*၃]

**ကေဝီသတိမဝါဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၄၈–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၈၆–ခုနှစ်၊ ဇူလိုင်လ)တွင် အရှင်ဉာဏသည် သင်္ဂြိုဟ်ဦးဝိုင်းကျောင်း၌ (၂၁) ဝါမြောက် ကေဝီသတိမ ဝါကို ကပ်ဆိုတော်မူပါသည်။ ထိုကေဝီသတိမဝါသည် သင်္ဂြိုဟ်ဦးဝိုင်းကျောင်း၌ အရှင်ဉာဏ နောက်ဆုံးကပ်သောဝါဖြစ်သည်။

---

*၁ လယ်ကြီးအင်း၊ ဆီးဖြူအင်း၊ ကျီးအင်း၊ လယ်တီအင်း–ဟူ၍ အင်းလေးအင်းရှိသည်။ ဦးတိုက်ဝမ်း၏ လယ်တီဝါတော်စဉ်။ (စာမျက်နှာ–၁၃)။ အချို့ကမူ ကျီးအင်း(ကန်တော်ကြီးအင်း)၊ လေ့ကူးအင်း(ကွေ့ကြီးအင်း)၊ နွားကူးအင်း(ထန်းတောအင်း)နှင့် ဘုရားကြီးအင်း(မြို့မရုပ်ရှင်ရုံအနီး)တို့ဖြစ်မည်ဟုပြ၏။ ဦးသာဌေး၏ မုန့်သည်မဇာတ်လမ်းနှင့် မုံရွာ(ဆောင်းပါး)။ မုံရွာမြို့ ရာပြည့်မော်ကွန်းမဂ္ဂဇင်း။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၁၁၁)။

*၂ 'ရှေးက လေ့ကူး(ယခု–မုံရွာ)အရပ်က တောင်သူလယ်သမားကြီးအချို့ ထိုလယ်တီတောကြီး၏ အနီးပတ်ဝန်းကျင်၌ 'လယ်'များကို 'တီ'ထွင်၍ လုပ်ကိုင်ကြသောဟူ၏။ လယ်ကို တီထွင်ခဲ့၍ ထိုအရပ်ကို 'လယ်တီတောဟု ခေါ်ဆိုကြလေသည်'ဟု လယ်တီတောအမည်တွင်လာပုံကို ဖော်ပြထား၏။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၈၀)။ ဆရာတော်ဦးဇယန္တ၏ အဋ္ဌိနမဟာထေရုပ္ပတ္တိဒီပနီကျမ်းတွင် 'လယ်ပြင်၌တည်ရသောကြောင့် လယ်တီတိုက်ဟုခေါ်၏'ဟုဖော်ပြထား၏။ ဦးဇယန္တ၏ အဋ္ဌိနမဟာထေရုပ္ပတ္တိဒီပနီ။ (စာမျက်နှာ–၂၇)။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးကမူ 'လယ်တီတိုက်ကြီးသည် ရှေးရှိရင်းတော၏ အမည်အားဖြင့် လယ်တီတိုက်ဟူ၍ ထင်ရှားကျော်ဇော၏'ဟု ရေးသားခဲ့၏။ လယ်တီပဏ္ဍိတ၏ သဒ္ဒမဥ္စရီကျမ်း။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၉၆–ခုနှစ်။ (စာမျက်နှာ–၄၄၃)။

*၃ အရှင်ကေလာသက 'အရှင်ဉာဏသည် ထိုလယ်တီတောသို့ ရွှေစည်းခုံကျောင်းမှာနေစဉ်ကပင် နေ့အခါ လာရောက်သီတင်းသုံးဖူးကြောင်း' ရေးထား၏။ အရှင်ကေလာသ၏ ထေရဝါဒအန္တရာယ်ကင်းဝေးချမ်းသာရေး။ မြင့်ဆွေစာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၉၃–ခုနှစ်။ (စာမျက်နှာ–၁၁၀)။

ထိုနှစ် ဝါကျွတ်သောအခါတွင် အရှင်ဉာဏသည် မိမိပိုင်သောပစ္စည်းအသုံးအဆောင် ပရိဘောဂများကို တပည့်သံဃာတို့အားဝေခြမ်းပေးကမ်းပြီး သင်္ဂြိုဟ်ဦးဝိုင်းဆောက်လုပ်လှူဒါန်းသောကျောင်းကိုမူ အတူနေသောခင်မွန်ရှင်ကေတုသို့ စွန့်လွှတ်တော်မူခဲ့၏။[*၁]

သုမေဓာပညာရှိစသည့် ရှေးရှေးသောဘုရားအလောင်း သူတော်ကောင်းတို့စဉ်လာ တောထွက်ရန်အကြံဖြစ်တော်မူလျှင် ဘဏ္ဍာတိုက်ဖွင့်ပေးပြီး ကုဋေအရာမက များလှသောဥစ္စာပစ္စည်းတို့ကို ကြိုက်နှစ်သက်သလိုယူကြဟု စွန့်လွှတ်ပေးကမ်းခြင်းပြုကြမြဲဖြစ်သကဲ့သို့၊ အရှင်ဉာဏသည်လည်း တရားသိမြင်ရေးအတွက်အနှောင်အဖွဲ့ဖြစ်မည့် ပစ္စည်းလာဘ်လာဘတို့ကို ရှေးဦးပထမ စွန့်ပစ်ဖြတ်တောက်တော်မူခဲ့ပေသည်။

ဆွမ်း,သင်္ကန်း,ကျောင်း,ဆေးပစ္စည်းလေးပါးသည် ရဟန်းတို့အတွက် မရှိလျှင်မဖြစ်သောလာဘ်လာဘပစ္စည်းဖြစ်သော်လည်း ထိုလာဘ်လာဘသည် 'အနုတ္တရဿ ယောဂက္ခေမဿ အဓိဂမာယ အန္တရာယိကော = အတုမရှိ မွန်မြတ်သော ယောဂလေးပါး၏ကုန်ရာ နိဗ္ဗာန်ကိုရခြင်းကိုမူကား အန္တရာယ်ကိုပြုတတ်၏' ဟူသော ဗုဒ္ဓဒေသနာအတိုင်း ပစ္စည်းလာဘ်လာဘသည် များလာလေလေ အန္တရာယ်ပို၍များလေလေပင်။ စားလောက်ရုံ ဝတ်လောက်ရုံ နေလောက်ရုံ ဆေးဝါးမျှတလောက်ရုံဟု နည်းနည်းပါးပါးကိုလက်ခံသည်ဆိုဦးတော့ ထိုနည်းနည်းကလေးမျှသော လာဘ်လာဘသည်ပင် လှူရန်လာသော ဒကာ,ဒကာမများကို အနုမောဒနာပြုရ တရားဟောရ မေးသောပြဿနာဖြေရနှင့် အချိန်ကုန်ရသဖြင့် မြတ်စွာဘုရားရှင်က 'ထိုလာဘ်လာဘကလေးသည်ပင် ရဟန္တာဖြစ်စေကာမူ ရဟန္တာအရှင်၏အရဟတ္တဖိုလ်ချမ်းသာကို ပျက်စီးအောင် မဖျက်ဆီးနိုင်လင့်ကစား ထိုသို့အနုမောဒနာပြုတရားဟောရသဖြင့် ဖလသမာပတ်ချမ်းသာနှင့် နေရမည့်အချိန်တွေကုန်သောကြောင့် ရဟန္တာပင်သော်လည်း အန္တရာယ်ရှိသေး၏' ဟု ဟောတော်မူပါသည်။ ဆွမ်း,သင်္ကန်း,ကျောင်း,ဆေးစသော ပစ္စည်းလေးပါးလာဘ်လာဘကား နည်းလျှင်လည်း မသင့်လျော်၊ များပြားလျှင်မူ အန္တရာယ်ကြီးမားလေတော့သည်။

လာဘ်လာဘနှင့်တွဲ၍ 'သက္ကာရ' သည်လည်း အန္တရာယ်ဖြစ်၏။ သက္ကာရကား– 'ကောင်းစွာပြုပြင်စီမံထားသော ပစ္စည်းလာဘ်လာဘကိုရခြင်း၊ အရိုအသေခံရခြင်း၊ အပူဇော်ခံရခြင်း၊ နေရာတကာမှာ အရိုအသေပြုနေရာပေးခြင်း၊ ဦးစားပေးခြင်းကို 'သက္ကာရ' ပြုသည်ဟုဆို၏။ သက္ကာရသည်လည်း လာဘ်လာဘကဲ့သို့ပင် သူတော်သူမြတ်တို့အတွက်အန္တရာယ်တစ်ခုဖြစ်သည်။ ထို့ပြင် လာဘသက္ကာရနှင့်တွဲ၍ 'သိလောက' ဟူသော အန္တရာယ်တစ်ပါးရှိသေး၏။ သိလောကကား– နာမည်ကျော်ခြင်း၊ တန်ခိုးကြီးကာဂုဏ်သတင်းပျံ့နှံ့လိုခြင်းပင်။

---

[*၁] ခင်မွန်ရှင်ကေတုသည် လယ်တီဆရာတော်ကြီး တောရဆောက်တည်တော်မူသောအခါ သင်္ဂြိုဟ်ဦးဝိုင်းကျောင်းကိုဖျက်ပြီး ဖောင်ဖြင့်တင်၊ ချင်းတွင်းမြစ်အတိုင်း ခင်မွန်ရွာသို့သယ်ယူသွားခဲ့၏။ ခင်မွန်ရွာ ပဲတောင်းရပ်၌ မူလသင်္ဂြိုဟ်ဦးဝိုင်းကျောင်းပုံစံအတိုင်း ပြန်၍ဆောက်ခဲ့၏။ ယခုတိုင် ထိုကျောင်းရှိသေး၏။ ကျောင်းအမည်ကို မင်္ဂလာဘုံစံကျောင်း၊ မဟာဇောတိကာရာမတိုက်–ဟူ၍ မန္တလေးမြို့၌ မြောက်ပြင်စံကျောင်းတိုက်ကြီးအမည်အတိုင်း ကမ္ပည်းတင်ခဲ့၏။ ခင်မွန်ရွာ၌ ထိုကျောင်းပြန်လည်ဆောက်လုပ်ရာတွင် ခင်မွန်ရွာနေ ဦးသာချွန်–ဒေါ်သိန်းမိသားစုတို့က ကျောင်းဒကာအဖြစ်ခံယူခဲ့ကြသည်။

ဤလာဘ,သက္ကာရ,သိလောကစသည့် ကာမဂုဏ်စည်းစိမ်တို့မှ ရုန်းထွက်နိုင်ခဲ၏။ အဆွဲဓာတ်အလွန်ကောင်းသောအရာများဖြစ်၍ တော်ရုံဖြင့်မဖြတ်တောက်နိုင်ကြပါ။ လာဘ,သက္ကာရစသောတရားများက နောက်ဆွယ်မှနေ၍ဆွဲထားသဖြင့် တရားရှာလိုသောယောဂီများမှာ တောထွက်ရန်နောက်ဆံတင်းပြီး ရုန်းထွက်ဖို့ရန် အခက်ကြုံဖြစ်ရရှာသော သာဓကများစွာရှိလေသည်၊ ဤသို့ လာဘ,သက္ကာရစသော ကာမဂုဏ်တို့ကြောင့် တစ်ကိုယ်တည်းတောရပ်ခိုပြီး ရှောင်ထွက်ရန်ကြံပါသော်လည်း ခဲခက်ပုံအကြောင်းစုံတို့ကို ဘုန်းတော်ကြီးအရှင်ဉာဏသည် နောင်အခါကျောင်းဒကာကြီးဦးကျော်ထံသို့ ဤသို့ ရေးသားတော်မူခဲ့ပါသည်။

'တစ်ကိုယ်ကောင်းကြံ၍ ရှောင်ထွက်မည်ကြံပါသော်လည်း နောက်ဆံတင်းသည့်ပမာဖြစ်၍နေသောတရားစကား အခြားမဟုတ်။ လူဖြစ်လျှင် လူအလျောက် လူ့ကာမဂုဏ်များပေတည်း။ ရဟန်းဖြစ်လျှင် ရဟန်းအလျောက် ရဟန်းကာမဂုဏ်များပေတည်း။

ရဟန်းကာမဂုဏ်ဆိုသည်ကား ကျောင်းထိုင်ပုဂ္ဂိုလ်ဖြစ်လျှင် မိမိနေရာတိုက်တာကြီးနှင့်တကွသော ကျောင်းအရိပ်အာဝါသကြီးသည်လည်း ရဟန်းကာမဂုဏ်မည်၏။ ထို့ပြင် မိမိနှင့်ဆက်နွယ်ရင်းနှီးကြကုန်သော ဥပါသကာ ဒါယကာယောကျ်ား၊ ဥပါသိကာ ဒါယိကာမမိန်းမများသည်လည်း ရဟန်း၏ကာမဂုဏ်ပင်မည်၏။ ထို့ပြင် မိမိပို့ချသင်ကြား၍ထားအပ်သော စာသင်တပည့်များသည်လည်း ရဟန်း၏ကာမဂုဏ်ပင်မည်၏။ အကယ်၍ အရှည်ကင်ဓုတင်ဆောက်တည်၍ တောထွက်ရန်ကြံစည်သောအခါ ထွက်ကာနီးဆဲဆဲတွင် ကျောင်းသံယောဇဉ်ကဆွဲ၊ မိမိနှင့်စပ်သောတပည့်ဒကာ စာသင်ပရိသတ်တည်းဟူသော သံယောဇဉ်တွေကဆွဲနှင့် မထွက်ဖြစ်နိုင်ဘဲ နောက်ဆံတငင်ငင် နောက်ဆံတထွေးထွေးရက်ရက်နှင့်သာနေရလေသည်။

သံယောဇဉ်အာရုံကာမဂုဏ်နှောင်ကြိုးတို့သည် အမှတ်မဲ့သာမည နေသောအခါ မိမိကိုယ်၌ဖွဲ့နှောင်မှန်းကို ကောင်းကောင်းမသိသာစေကုန်။ တရားသဘောကလေးများသက်ဝင်၍ သံဝေဂစိတ်ယှဉ်လာသောကြောင့် တောထွက်တော့မည်ဟု ကြံစည်သောအခါကျလျှင် အတင်းတုပ်နှောင်လာကြကုန်သည်။ စဉ်းစား၍ကြည့်ကြကုန်။

နုသေးသော အခြားသူများကိုမဆိုထားနှင့်ဦး၊ အန္တိမဘဝိကဖြစ်၍ ဘုရားဖြစ်ရလတ္တံ့သောဘဝမှာပင် အလောင်းတော်သိဒ္ဓတ္ထကုမာရမင်းသားသည် နိမိတ်ကြီးလေးပါးကိုမြင်၍ သံဝေဂကြီးစွာရသဖြင့် တောထွက်တော့မည့်ဆဲဆဲကြီးမှာပင် ယသော်ဓရာ၏မျက်နှာနှင့် သားတော်ရာဟုလာမျက်နှာကို ဘွားခနဲမြင်လာထင်လာသဖြင့် နောက်ဆံတငင်ငင်ဖြစ်ပြီးလျှင် အောင့်၍မှမနေနိုင်ရှာသောကြောင့် ညဥ့်သန်းခေါင်အခါ ကိုယ်တော်တစ်ပါးတည်း ယသော်ဓရာ၏အဆောင်တော်သို့ ကူးတော်မူသည်၊ အခန်းပေါက်ဝကနေပြီးလျှင် ယသော်ဓရာနှင့်ရာဟုလာကို ရှုတော်မူရာ ကြည့်ရှုရုံမျှနှင့် အားမရနိုင်သောကြောင့် သားတော်ရာဟုလာကိုပင် ယူငင်

ပိုက်ဖက်၍ နမ်းရှုပ်တော်မူမည်ဟု ကြံစည်တော်မူမိလေသေးသည်။ နောက်မှ အဇတင်း စိတ်ကိုချုပ်တီးပြီးလျှင် ဆုတ်ခွာတော်မူခဲ့ရရှာသတည်း။

ပုထုဇဉ်သာမန်ဖြစ်သော သူသူငါငါသတ္တဝါအစားမျိုးတို့ကိုမူကား အထူးပြောဆိုဖွယ်မရှိချေ။ အန္တိမဘဝိက ဘုရားအလောင်းတော်ကြီးပင် ကာမအာရုံအတွက်ကြောင့် တောထွက်တော်မူကာနီးတွင် နောက်ဆံတငင်ငင်ဖြစ်တော်မူရရှာသေးသည်။ တစ်ကိုယ်ကောင်းတန် တစောင်းကြံ၍ တွက်မြောက်မည်ရှိရာ နောက်ဆံတငင်ငင်နေ၍ အထွက်ခက်သည်ဟုဆိုသော်လည်း ပုဂ္ဂိုလ်တိုင်းကိုဆိုသည်မဟုတ်ပေ။ ယေဘုယျနည်းအားဖြင့် အဖြစ်များသည်ကိုသာဆိုရသည်။ ထို့ကြောင့် အချို့သော ပုဂ္ဂိုလ်များသည် နောက်ဆံတင်းခြင်းမရှိဘဲ လွတ်လွတ်ကြီး ထွက်မြောက်နိုင်ကြကုန်သည်လည်းရှိသေး၏။ ဇာတ်နိပါတ်တော်များ၌လည်း တိုင်းပြည်စည်းစိမ်နှင့်တကွ စွန့်ပစ်၍ မငဲ့မကွက်တစ်ကိုယ်ကောင်းထွက်မြောက်ကြပုံတို့သည်လည်း အလွန်ပင်များကုန်၏။*၁

သာသနာတော်၌ အကျိုးထူးကိုရယူလိုသောရဟန်းသည် ကျားသစ်နှင့်တူစွာကျင့်ရာ၏။ ကျားသစ်တို့သည် တောတောင်အတွင်းသို့လည်းကောင်း၊ တောင်ဝှမ်းလျှိုမြောင်သို့လည်းကောင်း၊ ခိုဝင်ပုန်းကွယ်ပြီး တောကောင်သတ္တဝါလိုရာရာကို ရှာဖွေဖမ်းဆီးကာ စားသောက်သကဲ့သို့ ပဋိလီနစာရီယောဂီရဟန်းသည် တောတန်းတောင်ကွေ့ လူသူမတွေ့ရာတို့၌ ပုန်းအောင်းပြီးလျှင် အလိုရှိအပ်သော သာသနိကအကျိုးထူးကိုကြိုးကုတ်အားထုတ်ကာ လောကုတ္တရာအမြိုက်အရသာကို ခံစားသုံးဆောင်ရလေရာ–ဟူသောဒေသနာအတိုင်း လယ်တီဆရာတော်ကြီးလောင်းလျာ အရှင်ဉာဏသည်လည်း လယ်တီအမည်ရှိသောတောကြီးအတွင်းသို့ ခိုဝင်ပုန်းအောင်းနေထိုင်ကာ တရားဘာဝနာအလုပ်ကိုအားထုတ်ကြိုးပမ်း၍ မဂ်လမ်းထွင် ဖိုလ်လမ်းဖောက်ရန် ကြံရွယ်တော်မူခဲ့လေပြီးဖြစ်ရကား သမ္မာသင်္ကပ္ပ မဟာဖွာသယနေက္ခမ္မဓာတ် ကြီးစွာကြံစည်ရင်းဖြစ်ပါ၍ ဤအကြိမ်၌ ပျက်ကွက်ရန်အကြောင်း မရှိတော့ပြီ။

**တောရဆောက်တည်ခြင်း**

သက္ကရာဇ် ၁၂၄၈–ခုနှစ်၊ ဆောင်းဝင်စ တပို့တွဲလပြည့်ကျော် ၈–ရက် (အေဒီ–၁၅၊ ဖေဖော်ဝါရီလ၊ ၁၈၈၇–ခုနှစ်)တွင် မုံရွာရပ်ရှိ ရေမိန်ကျောင်းတိုက်*၂ ၌အလှူပွဲတစ်ခုရှိရာ အရှင်ဉာဏကိုလည်း ပင့်ထားသောကြောင့် ထိုနေ့နံနက်စောစောကပင် ရေမိန်တိုက်သို့ အရှင်ဉာဏရောက်ရှိနေတော်မူပါသည်။ နေ့ဆွမ်းစားအပြီးတွင် အရှင်ဉာဏသည် သင်္ဂြိုဟ်ဦးဝိုင်းကျောင်းသို့ပြန်မကြွသေးဘဲ ဥပုသ်သည်လူကြီးသုံးလေးယောက်ကိုလည်း ဟိုနားသည်နားလျှောက်ကြည့်ရအောင်ဟုခေါ်ခဲ့ပြီး၊ သပိတ်ကိုလွယ်၍ သားရေနယ်တစ်ချပ်ဖြင့် မုံရွာ၏မြောက်ဘက်အရပ်သို့ထွက်ခဲ့ကြ၏။

---

*၁ လယ်တီဆရာတော်ကြီး၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၂၂၈)။

*၂ ရေမိန်ကျောင်းသည် မုံရွာမြို့ ရုံးကြီးရပ်၊ ရုံးကြီးလမ်းပေါ်တွင်တည်ရှိပြီး၊ အရှေ့ရေမိန်, အနောက်ရေမိန်ဟု နှစ်ကျောင်းရှိနေပါသည်။ အရှေ့ရေမိန်ကျောင်းမှာ မူလကျောင်းဖြစ်ပါသည်။




တလုံးတောရရှခင်းနှင့်တလုံးတောရဆရာတော်ဦးဝါယာမိန္ဒ




တလုံးတောရအတွင်းရှိ ရှေးရှစ်မျက်နှာဘုရားနှင့်ယခုပြုပြင်ပြီးပုံ




ဤရေမိန်ကျောင်းတိုက်ရှိအလှူပွဲအပြီးတွင် လယ်တီဆရာတော်လောင်းလျာအရှင်ဉာဏသည်
လယ်တီတောရကြီးအတွင်းသို့ တောထွက်တော်မူခဲ့ပါသည်။

ဘုန်းတော်ကြီးအရှင်ဉာဏနှင့် ဒကာကြီးတို့တစ်စုသည် မုံရွာမြို့ မြောက်ဘက်ရှိ လယ်တီတောကြီး၏အစပ်သို့ရောက်လာကြသည်။ ထိုလယ်တီတောကြီးသည်ကား နေမွန်းတည့်အခါဖြစ်သော်လည်း နေရောင်မကျနိုင်လောက်အောင် အမြင့်ငါးပေခန့်ရှိသည့်ချုံနွယ်ပိတ်ပေါင်း သစ်ပင်ကြီးငယ်အသွယ်သွယ်ဖြင့် ပိတ်ဖုံးကာရံလျက်ရှိ၏။ ထိုတောကြီးအတွင်း၌ နွားခိုးသတ်သူတို့၏ နွားသတ်ကွင်းဖြစ်နေခဲ့၍ အန္တရာယ်ကလည်းညှိုတစ်ရှိနှင့်၊ အရှင်ဉာဏနှင့်အတူလိုက်ပါလာသော ဥပုသ်သည်ဒကာကြီးတို့မှာ လယ်တီတောအစပ်သို့ရောက်စကပင် အတော်ကြီးကြောက်လန့်နေကြပြီဖြစ်၍ ရှေ့သို့ဆက်၍ မတိုးဝံ့ကြတော့ပေ။

ထိုသို့ ဒကာကြီးများ တောထဲလိုက်မဝင်ဝံ့ကြပုံ၊ ကြောက်လန့်နေကြပုံကိုတွေ့ရသောအခါ အရှင်ဉာဏသည် ဤတောကား ငါ့အတွက်တရားအားထုတ်ရန်ဖြစ်ပေါ်လာသော တောကြီးပါတကား။ ဤတောရအတွင်း၌တရားအားထုတ်နိုင်လျှင် လူသူလေးပါးအန္တရာယ်မှကင်းလွတ်ပြီဟု ဝမ်းမြောက်ဝမ်းသာဖြစ်တော်မူလျက် နက်လှသောတောကြီးအတွင်း ရှေ့သို့သာတိုး၍လာခဲ့၏။

ရံခါ၌ တော၏နက်ခေါင်မှုက စိတ်ကိုချောက်ချား၍ လှည့်စားလိုသောအခါ တွန့်ရွံ့နေသော ခြေလှမ်းကို ရှေ့သို့ရဲရဲလှမ်းစေခဲ့၏။ အနာထပိဏ်သူဌေး ဘုရားရှင်ထံလာစဉ်အခါက 'အဘိက္ကမ၊ ဂဟပတိ၊ အဘိက္ကမနံ တေ သေယျော၊ နော ပဋိက္ကမနံ=ရှေ့တိုးလော့-ရှေ့သို့တိုးလော့၊ သင်ရှေ့တိုးက အကျိုးရှိမည်။ နောက်ဆုတ်က အကျိုးယုတ်မည်'ဟု (သံ၊၁။၂၁၃။) အားပေးသံကို ကြားရသည့်အတိုင်း အရှင်ဉာဏလည်း မထင်မှတ်သောနေရာများမှ ရှေ့သို့ဆက်တိုးရန် အားပေးသံများကို ကြားယောင်နေမိလေသည်။ ဤသို့ ရှေ့သို့ရဲရဲလှမ်းရင်းဖြင့် နက်ခေါင်သော လယ်တီတောကြီး၏အလယ် တဖောင်းပင်ကြီးတစ်ပင်အနီးသို့ ရောက်ရှိသွားကြလေသည်။

အရှင်ဉာဏသည် ထိုနေရာတစ်ဝိုက်ကိုကြည့်ရှုလေ့လာအကဲခတ်ပြီးနောက် တဖောင်းပင်အောက်မှာပင်နေတော့မည်ဟုဆုံးဖြတ်တော်မူကာ အတူလိုက်ပါလာသောဒကာကြီးတို့အား တဖောင်းပင်ကြီးအနီးတစ်ဝိုက်ကို ရှင်းလင်းစေပါသည်။ လူတစ်ကိုယ်ထိုင်လောက်သောနေရာတစ်ခုဖြစ်ပေါ်လာသောအခါ ပါလာသောသားရေနွယ်ချပ်ကိုခင်းပြီးလျှင် ဥပုသ်သည်ဒကာကြီးတို့အား ဤသို့အမိန့်ရှိတော်မူ၏။*၁

---

*၁ လယ်တီဆရာတော်ကြီး ရှေးဦးစွာတရားအားထုတ်သောနေရာကို လယ်တီဦးလှတင်၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၂၉)တွင် 'တဖောင်းပင်အောက်'၊ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ-၈၁)၌ 'မန်ကျည်းပင်အောက်'၊ အောင်သိဒ္ဓိရွှေကြီး၏ ဝါတော်စဉ်ထေရုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ-၁၂)၌ 'ရှားစောင်းပင်အောက်'၊ ဆရာစိုး၏ လယ်တီထေရုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ-၉)၌ 'မန်ကျည်းပင်အောက်'၊ လယ်တီနေမင်းကျမ်း၌မူ 'တစောင်းပင်ကြီးအောက်, မန်ကျည်းပင်၏ ခြေရင်း'ဟု နှစ်ဌာနတွဲပြီး-စသည်ဖြင့် မူအမျိုးမျိုးရေးသားပြဆိုကြပါသည်။ လယ်တီဆရာတော်ကြီး လယ်တီတောကြီးအတွင်း၌ ရှေးဦးပထမသီတင်းသုံးသောနေရာတွင် စောင်းခြမ်းပင်ဆူးချုံကြီးရှိနေပြီး ထိုနေရာမှာ ယခုလယ်တီကျောက်စာတိုက်၏ အနောက်တောင်ဘက် ကိုက်-၅၀ အကွာဖြစ်ကြောင်းကို အဘိဓမ္မာဆရာသဲကြီးက စလင်းဆရာတော်ဦးကိတ္တိ(နိုင်ငံတော်မဟာနာယကအဖွဲ့၊ ဒုတိယဥက္ကဋ္ဌဆရာတော်)ကို လျှောက်ထားဖူးကြောင်း နဝမလယ်တီဆရာတော်ဦးကေလာသ (၁၂-၁၁-၁၉၉၇)နေ့က မိန့်ကြားပါသည်။ လယ်တီအရှင်ကေလာသ၏ ထေရဝါဒ အန္တရာယ်ကင်းဝေးချမ်းသာရေး။ ၁၉၉၃-ခုနှစ်။ (စာမျက်နှာ-၁၁၀)လည်းရှုပါ။

'ယခု ဤနက်ခေါင်သော လယ်တီတောကြီးအတွင်းသို့ ငါဝင်လာခြင်းသည်ကား အလည်အပတ်လာခြင်းမဟုတ်၊ တောထွက်မည်ဟူသောအကြံနှင့် လာခဲ့ခြင်းဖြစ်သည်။ ဒကာတို့ ပြန်ကြပေတော့။ ငါ သည်တောကြီးအတွင်းမှာနေရစ်တော့မည်။ ကျောင်းမှာကျန်ရစ်သော ဦးပဥ္စင်းများအား ဤအကြောင်းကို ပြောကြားလိုက်ကြပေတော့' ဟု မိန့်တော်မူလေသည်။

ထိုအခါ ဒကာကြီးများက 'ကိုယ်တော်၊ ကိုယ်တော်ဘာလုပ်မလို့လဲ' ဟု ထိတ်ထိတ်ပျာပျာ အမူအရာဖြင့်မေးကြ၏။ 'ဒီတောထဲမှာ တရားအားထုတ်ပြီးနေရစ်မလို့ ဒကာကြီးတို့' ဟုမိန့်တော်မူပြန်ရာ၊ ဒကာကြီးများက 'မလုပ်ပါနဲ့ကိုယ်တော်၊ ဒီတောကြီးဟာ ကျားအောင်း ဆင်အောင်းနဲ့ ကြောက်စရာအလွန်ပဲကောင်းပါတယ်၊ အရှင်ဘုရား ဒီတောကြီးအတွင်းနေရစ်တော်မူလို့ရှိရင် တပည့်တော်များ ရေမိန်တိုက်ရောက်လို့ ကျန်ခဲ့တဲ့လူတွေက ဘုန်းကြီးဘယ်မှာကျန်ခဲ့သလဲမေးရင် ဖြေရခက်ပါတယ်ဘုရား၊ အချိန်လည်းနည်းလှပြီ၊ ပြန်ကြပါစို့ကိုယ်တော်' ဟု မြို့ကျောင်းသို့ပြန်၍ လိုက်ပါရန် တောင်းပန်ကြ၏။ ဒကာကြီးတစ်ဦးကပို၍ပင် 'တပည့်တော်တို့မပါတဲ့ နောက်တစ်နေ့မှ တောထဲဝင်ချင်ဝင်ပါ ကိုယ်တော်၊ ဒီနေ့တော့သည်းခံ၍ ပြန်ကြွတော်မူပါဘုရား' ဟုပင် သနားဖွယ် တောင်းပန်၏။

သို့ပါသော် အရှင်ဉာဏ၏တောရဆောက်တည်လိုသောစိတ်ထားသည် နတ်သိကြားတို့ လာ၍ဖျက်သော်မှ ပျက်တော့မည်မဟုတ်သဖြင့် ဒကာကြီးများ မည်သို့ပင်တောင်းပန်ကြစေကာမူ နာယူဟန်အမူအရာကိုမျှ ပြတော်မူခြင်းမရှိပေ။ ဒကာကြီးတို့မှာ အရှင်ဉာဏအား ချော့မော့ဖျောင်းဖျ၍ မရတော့သည့်အဆုံး အရှင်ဉာဏတစ်ပါးတည်းချန်ရစ်ကာ လယ်တီတောကြီးအတွင်းမှ အမြန်ဆုံးထွက်ခဲ့ကြသည်။ *၁

ထိုဒကာများ ရေမိန်တိုက်သို့ပြန်ရောက်၍ သင်္ဂြိုဟ်ဦးဝိုင်းကျောင်းဘုန်းကြီးအရှင်ဉာဏသည် မုံရွာမြို့၏မြောက်ဘက်ရှိ လယ်တီတောကြီးအတွင်း၌ တောရဆောက်တည်ရန်နေရစ်ခဲ့ကြောင်း ပြောပြကြသောအခါ မုံရွာလေ့ကူးနှစ်ရပ်စလုံးမှာပင် 'သင်္ဂြိုဟ်ဦးဝိုင်းကျောင်းဘုန်းကြီး တောထွက်သွားပြီ' ဟူသောသတင်း ပျံ့နှံ့ကျော်ကြားသွားခဲ့လေတော့သည်။ *၂

---

*၁ ဤအချက်များမှာ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ (၅-၃-၁၉၇၉)နေ့ ပြောပြချက်များဖြစ်သည်။

*၂ လယ်တီဆရာတော်ကြီးတောထွက်ရာ၌ ဥပုသ်သည်သုံးလေးဦးကိုခေါ်၍ တောထွက်သည်ဟုရေးကြသကဲ့သို့ ဆရာစိုး၏ လယ်တီဆရာတော်ဘုရားကြီး၏အတ္ထုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ-၉)၌ 'ညဥ့်သန်းခေါင်လောက် ဘုရားအလောင်းတော်များတောထွက်သကဲ့သို့ တိတ်ဆိတ်စွာ သပိတ်တစ်လုံး၊ သင်္ကန်းသုံးထည်၊ သားရေနယ်တစ်ချပ်ဖြင့် မုံရွာမြို့ လယ်တီတောအုပ်သို့ကြွတော်မူလေသည်' ဟူ၍လည်းကောင်း၊ ရွှေမုံတင်၏ လယ်တီနေမင်းကျမ်း။ (စာမျက်နှာ-၆၅)တွင် 'သန်းခေါင်ယံအချိန်တွင် မည်သူ့ကိုမျှအသိမပေးဘဲ တောထွက်တော်မူသည်' ဟူ၍လည်းကောင်း ရေးသားထားကြပါသည်။

ရှေးကတဘောင် မှန်လေပြီ

သင်္ဂြိုဟ်ဦးဝိုင်းကျောင်းဘုန်းကြီးအရှင်ဉာဏသည် မုံရွာမြို့၏အရှေ့မြောက်အရပ်ရှိ လယ်တီတောရအတွင်း၌သီတင်းသုံးတော်မူသောအခါ မြို့ပေါ်ရှိသက်ဝါကြီးသူတို့က 'မုံရွာမှာ ရှေးကပေါ်ခဲ့တဲ့တဘောင်မှန်လေပြီ'ဟု မိန့်ဆိုကြလေသည်။

တဘောင်ဆိုသည်မှာ ရှေ့ပြေးနိမိတ်အနေဖြင့်ပြောဆိုကြသောစကားဖြစ်သည်။ 'စနည်းကိုတောင်၊ တဘောင်ကိုမြောက်၊ ယူကောက်နှိုင်းညှိ၊ ဆိုရိုးယှိရှင့်'*၁ ဟုစာဆိုရှိလေရာ တောင်ဘက်အရပ်ကပြောသောစကားကိုစနည်း၊ မြောက်ဘက်အရပ်ကပြောသောစကားကို တဘောင်ဟုခေါ်ကြောင်း အယူရှိ၏။ လောကီပညာကျမ်းတို့၌မူ ရှေးအဖြစ်နိမိတ်ကို ကဗျာလင်္ကာဖြင့်စပ်ဆိုထားသောအကြောင်းအရာကို တဘောင်ဟုယူဆ၏။*၂ တဘောင်စနည်း အတိတ်,နိမိတ်, တိတ္တုံစသည်တို့သည် တိုင်းနိုင်ငံဘုန်းတန်ခိုးရှိသော သံဃာ, ရှင်ဘုရင်, သူတော်စင်ပုဂ္ဂိုလ်တို့နှင့်သက်ဆိုင်၏။ တိုင်းပြည်အရေးကိစ္စရှိလျှင် တဘောင်ပေါ်တတ်၏။ အထူးအားဖြင့် ဘုန်းတေဇနှင့်ပြည့်စုံသော 'ရဟန်းရှင်လူတို့ပေါ်ပေါက်လာလျှင်၊ ပျက်စီးရန်ဖြစ်လျှင်၊ အပြောင်းအလွဲဖြစ်လျှင်တဘောင်ပေါ်တတ်၏။'*၃ ဥပမာပြရလျှင် ညောင်ကန်ဆရာတော်ကြီးဦးဗုဓ်ကို အင်းဝနန်းသို့ပင့်အံ့အခါ– 'မိုးကြီးချုပ်လို့ဘုတ်ကြီးမည် ပူစီတဲ့ဘုန်း။ သာသနာ ဝါယမာတာဘန်ထုတ်ရန်ဘို့၊ ရွှေဘုတ်မယ့်ဆံထုံး–နားလှည့်ပါအုံး'ဟူသော တဘောင်ပေါ်၏။*၄ သီပေါမင်းနန်းကျမည်ရှိသောအခါ ပြည်သူတို့သီဆိုကြသောတဘောင်မှာ 'တုံးအောက်က တီတွန်၊ လူလွန်မ,သား။ မုန့်ဆီကြော်အလယ်အက်တယ်၊ ပြည်ဖျက်တဲ့သား'ဟူ၍ ဖြစ်၏။*၅

ယခုလည်း သင်္ဂြိုဟ်ဦးဝိုင်းကျောင်းဘုန်းကြီးရှင်ဉာဏသည် အတိတ်နိမိတ်များဖြင့်မွေးဖွားလာသောပုဂ္ဂိုလ်ထူးဖြစ်သောကြောင့် ထိုအရှင်မြတ်၏ဘဝအပြောင်းအလဲဖြစ်မည်ရှိသောအခါ ရှေးကပြောဆိုသောတဘောင်သည် တဖန်ပြန်၍ပေါ်လာ၏။ ထိုတဘောင်မှာ အောက်ပါအတိုင်းဖြစ်၏။

---

*၁ မန်လည်ဆရာတော်ကြီး၏ မဃဒေဝလင်္ကာသစ်၊ (အပိုဒ်–၁၉၃)။ ပြည်ကြီးမဏ္ဍိုင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၃၆–ခုနှစ်။ (စာမျက်နှာ–၁၅၂)။

*၂ Than Tun' In Influence of Occultism in Burmese History with Special Reference to Bodawpaya's Reign 17 82-1819. BHHC, I, ii, Dec., 1960. Page-117.

*၃ ဦးသော်ဇင်၏ တဘောင်သံနှင့်ညောင်ကန်(ဆောင်းပါး)။ သုတဥ္စလီ။ သုတစာပေ၊ ရန်ကုန်မြို့။ ၁၉၈၄–ခုနှစ်။ (စာမျက်နှာ–၁၃၅)။

*၄ ဦးသုဒဿနစ်၏ ညောင်ကန်သာသနာဝင်။ ၁၃၂၁–ခုနှစ်။ (စာမျက်နှာ–၁၄၇)။

*၅ မော်ဘီဆရာသိန်း၏ မြန်မာဇာတ်ပွဲသဘင်စာအုပ်။ နလုံးလှစာပေတိုက်၊ ရန်ကုန်မြို့။ ၁၉၆၅–ခုနှစ်။ (စာမျက်နှာ–၂၂၆)။

၁။ ဘုရားလေးဆူ၊[*၁] ဂူလည်းလေးဖြာ၊[*၂] ကျစ်မှာလေးပါး၊[*၃] သိမ်ကားလေးဆောင်၊[*၄] ချောင်လေးချောင်နှင့်၊[*၅] ကုန်းယောင်လေးမည်၊[*၆] အိုင်လေးလီ၊[*၇] အင်းသည်လေးအင်း ရှိလတ္တံ့။[*၈]

၂။ အင်း,အိုင်,ကုန်း,ချောင်၊ ပေါ်ထွန်းဆောင်၊ နောက်နောင်မြို့ကြီး ဖြစ်လတ္တံ့။

၃။ ဂူကျစ်သိမ်ဖျား၊ ကုသိုလ်များ၊ ထပ်ပွားပူဇော် တည်လတ္တံ့။

၄။ သီရိဓမ္မာ၊ အသောကာ၊ တည်ရာမှန်အံ့ ဖြစ်လတ္တံ့။

၅။ အကျွန်ုပ်မိဋ္ဌာန်၊ စိတ်အကြံ၊ ကေန်အမှန် ဖြစ်လတ္တံ့။

၆။ ဆုတောင်းပြည့်ရှင်၊ မြတ်ထွတ်တင်၊ နောင်လျှင်ပျံ့နှံ့ တွင်လတ္တံ့။

၇။ ကောင်းမှုတော်ဝယ်၊ မြတ်ဖုန်းကြွယ်၊ ရွာလယ်နောက်ခါ ဖြစ်လတ္တံ့။

၈။ ဤရွာရှေ့မြောက်၊ ခြသေ့်ရောက်၊ ဘုန်းတောက်နေလို ထွန်းလတ္တံ့။

၉။ ထိုဟေမဝါ၊ ကေသရာ၊ ဒီပါပြည်လုံး ဟောက်လတ္တံ့။

၁၀။ ဓမ္မစည်မောင်း၊ ခြိမ့်ခြိမ့်ညောင်း၊ မင်းကောင်းရဟန်း ပေါ်လတ္တံ့။

၁၁။ မုန့်သည်မစ္ဆာ၊ ခေါ်သညာ၊ နောင်ခါမြို့ကြီး ဖြစ်လတ္တံ့။

၁၂။ တပ်တွင်းတပ်ပြင်၊ မြတ်ရှင်ပင်၊ နောင်တွင်တန်ခိုး ပွင့်လတ္တံ့။

၁၃။ အတိတ်နာဂံ၊ ပစ္စုပ္ပန်ဝယ်၊ ဝေဖန်ပိုင်းခြား၊ သံပိုင်းသား၍၊ မြတ်ဘုရားမုနိန်၊ မာရဖိန်ကို၊ ဦးနှိမ်ဝပ်လျှိုး၊ ကျွန်ရှိခိုးသည်၊ တန်ခိုးနေသို့ လင်းစေသောဝ်။ ။[*၉]

---

[*၁] မုံရွာမြို့ ဆုတောင်းပြည့်ဘုရား၊ ရွှေစည်းခုံဘုရား၊ ဆိုင်းတန်းရပ်ချမ်းသာကြီးနှင့် မဟာရံသီဘုရား–ဟု ယူဆကြ၏။

[*၂] မုံရွာမြို့ ဆုတောင်းပြည့်ဘုရားရှိ ရန်အောင်မြင်ဘုရားဂူ၊ ချမ်းသာကြီးဘုရားရှိ ရွှေဂူနီ၊ ရွှေဂူဖြူ–ဟု ယူဆကြ၏။

[*၃] မုံရွာကမ်းနားလမ်းရှိ ကျစ်ဘုရား၊ ညောင်ပင်ဈေးရှိ နဂါးရုံကျစ်ဘုရား၊ ဇရပ်ဝိုင်းဘုရား၊ ညောင်တပင် ပြည်လုံးချမ်းသာဘုရား–ဟု ယူဆကြ၏။

[*၄] ဘုရားနီသိမ်၊ ရွှေစည်းခုံသိမ်၊ အုန်းခြံရပ်ရှိသိမ်၊ ထန်းတောရပ်ရှိသိမ်–ဟု ယူဆကြ၏။

[*၅] ပေကုန်းချောင်၊ ဆိုင်းချောင်၊ ဆီးဖြူချောင်၊ ဖုတ်ကုန်းချောင်–ဟု ယူဆကြ၏။

[*၆] ပေကုန်း၊ မရိုးကုန်း၊ ဆူးလေကုန်း၊ ယာကြီးကုန်း–ဟု ယူဆကြ၏။

[*၇] ရတနာပုံရပ်ရှိ ခွေးရပ်အိုင်၊ ဘုန်းစိုးရပ်ရှိ အနော်မာအိုင်၊ ထန်းတောရပ်ရှိ မန်ကျည်းအိုင်၊ အမှတ်(၁)ရဲစခန်းအနီးရှိ ဇင်ရွှေးအိုင်–ဟု ယူဆကြ၏။

[*၈] ကျိုးအင်းခေါ် ကန်တော်ကြီးအင်း၊ လှေကူးအင်းခေါ် ကွေ့ကြီးအင်း၊ နွားကူးအင်းခေါ် ထန်းတောအင်းနှင့် မြို့မရပ်ရှင်ရဲ့အနီးရှိ ဘုရားကြီးအင်း–ဟု ယူဆကြ၏။

[*၉] ဦးဘဌေး၏ မုန့်သည်မဇာတ်လမ်းနှင့် မုံရွာ (ဆောင်းပါး)။ မုံရွာရာပြည့်မော်ကွန်းမဂ္ဂဇင်း။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၁၁၁)။

အထက်ပါတဘောင်ပါ မုံရွာမြို့၏အရှေ့မြောက်သို့ အင်္ဂါနံသား သာသနာ့အာဇာနည် မထေရ်မြတ်တစ်ပါးရောက်ရှိကာ မုံရွာမြို့တင်မက တိုင်းတစ်ပြည်လုံးသို့ဂုဏ်တေဇာလွှမ်းကျော် သွားလိမ့်မည်–ဟူသောအချက်နှင့်စပ်၍ သင်္ဂြိုဟ်ဦးပိုင်းကျောင်းဘုန်းကြီးသည် အင်္ဂါသား အရှင်ဉာဏ၊ လယ်တီတောကြီးသည် မုံရွာမြို့၏အရှေ့မြောက်အရပ်၌တည်ရှိသော အရပ်ဒေသဖြစ်သည့် အတွက် သက်ကြီးရွယ်အိုလူကြီးသူမတို့က လယ်တီတောကြီးသို့ အရှင်ဉာဏ တောရတည် ခြင်းသည် ရှေးကတဘောင်မှန်ဖို့အကြောင်းပေါ်ပြီ–ဟု ယူဆကြခြင်းဖြစ်လေသည်။*၁

ထိုတဘောင်အရ မုံရွာသည် မြို့ကြီးဖြစ်လိမ့်ဦးမည်ဆိုရာတွင် အရှင်ဉာဏ လယ်တီတောရ သို့ဝင်သော သက္ကရာဇ်၁၂၄၈(အေဒီ–၁၈၈၆)ခုနှစ်တွင် အလုံမြို့သို့ ကက်ပတိန်ရိုက်(စ်) ဦးဆောင် သော အင်္ဂလိပ်တပ်ရောက်ရှိလာပြီး အလုံမြို့ကို အရေးပိုင်မင်းအုပ်ချုပ်သော မြို့ကြီးအဖြစ် သတ်မှတ်ရန် အစီအစဉ်လုပ်ခဲ့၏။ သို့ပါသော် အလုံမြို့သားတို့က လက်မခံသည့်အတွက် အရေးပိုင်ရုံးစိုက်ရာမြို့ကို အလုံအစား မုံရွာ၌ထားရှိရန် အင်္ဂလိပ်အစိုးရကဆုံးဖြတ်ခဲ့ကြသည်။ သို့ဆုံးဖြတ် ပြီး မကြာမြင့်မီကာလမှာပင် မုံရွာသည် ရွာအဖြစ်မှမြို့၊ တစ်နည်း အရေးပိုင်မင်း ရုံးစိုက်သောမြို့ဖြစ်ရန် သေချာနေလေပြီဖြစ်ရာ*၂ ဤအချက်သည်လည်း ရှေးကတဘောင်မှန်ဖို့ အကြောင်းတစ်ရပ်ဖြစ်တော့သည်။

---

*၁ အချို့က 'မုံရွာမြို့မြောက် လေးတထောက်၊ ခြင်္သေ့လာ၍ဟောက်လတ္တံ့။ ခြင်္သေ့ဟောက်သောအခါ သာသနာ၊ ရောင်ဝါ နေသို့ထွန်းလတ္တံ့'ဟု တဘောင်ပေါ်ကြောင်းရေးသားကြ၏။ မောင်ရဲထိုက်(မုံရွာ)၏ ရာပြည့်မဟာလယ်တီ(ဆောင်းပါး)။ မုံရွာမြို့ ရာပြည့်မော်ကွန်းမဂ္ဂဇင်း။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၆၉)။

*၂ တိုးလှ၏ အညာတြမုံရွာမှသည်(ဆောင်းပါး)။ မုံရွာဒေသကောလိပ်မဂ္ဂဇင်း၊ ၁၉၈၀/၈၁–ခုနှစ်။ (စာမျက်နှာ–၄၈)။ အောင် သာစံ၏ မနေ့ကနှင့်ယနေ့မုံရွာ(ဆောင်းပါး)။ ချင်းတွင်းမဂ္ဂဇင်း၊ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ–၉၄)။ အောင်သာစံ၏ မြို့–မုံရွာရာပြည့်ပွဲ(ဆောင်းပါး)။ ချင်းတွင်းမဂ္ဂဇင်း။ ၁၉၈၇–ခုနှစ်။ (စာမျက်နှာ–၂၆)။

# လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်

## [ပဥ္စမပိုင်း]

## လယ်တီတောရကျောင်းဆရာတော်ဘဝ

## (သက္ကရာဇ် ၁၂၄၈–သက္ကရာဇ် ၁၂၆၁)*၁

### မြို့မှရွာ

သင်္ဂြိုဟ်ဦးပိုင်းကျောင်းဘုန်းတော်ကြီးအရှင်ဉာဏ လယ်တီတောကြီးအတွင်းသို့ဝင်ရောက်၍ တောရဆောက်တည်ခဲ့သော မြန်မာသက္ကရာဇ် ၁၂၄၈–ခုနှစ်၊ တပို့တွဲလ (အေဒီ ၁၈၈၇–ခုနှစ်၊ ဖေဖော်ဝါရီလ)သည် သီပေါမင်းပါတော်မူပြီး နှစ်နှစ်တာကာလဖြစ်ပြီးလျှင်၊ ဗြိတိသျှတို့က ဤနိုင်ငံ၌ ယင်းတို့၏အုပ်ချုပ်ရေးအခြေခိုင်ခံ့စေရန် မင်းသွေးမင်းဆက်များနှင့် မျိုးချစ်ပုဂ္ဂိုလ်တို့ကို နှိမ်နင်းဖြိုခွဲနေသော အခါကာလလည်းဖြစ်သည်။

ထိုစဉ် မြန်မာနိုင်ငံအလယ်ပိုင်း၌တာဝန်ကျနေသော ဗြိတိသျှစစ်ဗိုလ်ချုပ်ဂျင်နရယ်ဝှိုက်*၂ က အိန္ဒိယနိုင်ငံရှိစစ်ထောက်ချုပ်ထံသို့ 'ကျွန်ုပ်တို့၏အုပ်ချုပ်မှုတည်တံ့ခိုင်မြဲရေးနှင့် ကျေးရွာများ၏ယုံကြည်ကိုးစားမှုကို ခံယူရရှိရေးအတွက် ဆူပူလှုပ်ရှားလျက်ရှိသော စီရင်စုနယ်များတွင် စစ်စခန်းများချထားပြီး ကြပ်ကြပ်မတ်မတ် ထိန်းသိမ်းကွပ်ကဲရန် လိုအပ်ပေသည်' ဟူသောအချက် ပါဝင်သည့်အစီရင်ခံတစ်ရပ်ကို ရေးသားပေးပို့လိုက်သည်။ ထိုအစီရင်ခံစာအရ ဗြိတိသျှအုပ်ချုပ်ရေးဆိုင်ရာပုဂ္ဂိုလ်များက မိမိတို့၏တပ်ဖွဲ့များကို ကျူးကျော်ရေးတပ်ဖွဲ့များအဖြစ်မှသည် နယ်မြေစိုးမိုးအုပ်ချုပ်ရေးတပ်ဖွဲ့များအသွင်သို့ ကူးပြောင်းစေခဲ့ပြီး စစ်သည်အင်အားကိုလည်း တိုးချဲ့ဖွဲ့စည်းခဲ့ကြသည်။*၃

သက္ကရာဇ် ၁၂၄၈–ခုနှစ်၊ နတ်တော်လ (အေဒီ ၁၈၈၆–ခုနှစ်၊ ဒီဇင်ဘာလ) တွင် ဗြိတိသျှတို့၏ မြန်မာနိုင်ငံစစ်မြေပြင်တပ်ဖွဲ့အင်အားသည် ၂၅,၀၀၀–

---

*၁ အေဒီ ၁၈၈၆–ခုနှစ်၊ ဧပြီလမှ အေဒီ ၁၀၀–ပြည့်နှစ်၊ ဧပြီလအထိ ဖြစ်သည်။

*၂ Brigadier General White, V.C, C.B., ဤပုဂ္ဂိုလ်သည် ၁၈၈၆–ခုနှစ်၊ ဧပြီလ ၁–ရက်နေ့တွင် အထက်မြန်မာပြည်စစ်ဦးစီးချုပ်ရာထူးကို လက်ခံယူခဲ့သူဖြစ်သည်။ ဦးလှသိန်း၏ အထက်မြန်မာပြည်၌ ဗြိတိသျှအုပ်ချုပ်ရေးပန္နက်ချပုံ(စာတန်း)။ နိုင်ငံသမိုင်းသုတေသနစာစောင်(၁)။ ၁၉၇၇–ခုနှစ်။ (စာမျက်နှာ–၁၇၆)။

*၃ ရန်ကုန်တက္ကသိုလ်သမိုင်းဌာန၏ မြန်မာ့လွတ်လပ်ရေးကြိုးပမ်းမှုသမိုင်း၊ အပိုင်း(၁)။ ပညာရေးဝန်ကြီးဌာန၊ ရန်ကုန်မြို့။ ၁၉၈၆–ခုနှစ်။ (စာမျက်နှာ–၁၄၆)။

ခန့်ရှိခဲ့ပြီး၊ သက္ကရာဇ် ၁၂၄၈–ခုနှစ်၊ ပြာသို၊ တပို့တွဲလ (အေဒီ ၁၈၈၇–ခုနှစ်၊ ဇန်နဝါရီ/ ဖေဖော်ဝါရီ)သို့ရောက်သောအခါ စစ်သည်အင်အား ၃၂,၀၀၀ အထိ တိုးမြှင့်ဖွဲ့စည်းခဲ့လေသည်။ ထို့ပြင် ဗြိတိသျှအိန္ဒိယအင်ပါယာအတွင်း အရည်အသွေးအထက်မြက်ဆုံးစစ်ခေါင်းဆောင် အသက်(၅၄)နှစ်အရွယ်ရှိသူ စစ်ဦးစီးချုပ် ဆာ ဖရက် ဒရစ် ရောဘတ် *၁ ကို မြန်မာနိုင်ငံအတွင်း ဖြစ်ပေါ်နေသော နယ်ချဲ့ဆန့်ကျင်ရေးလှုပ်ရှားမှုများအမြစ်ပြတ်ချေမှုန်းရေးအတွက် တာဝန်ပေးအပ်ပြီး ဤနိုင်ငံသို့စေလွှတ်လိုက်သည်။*၂ ဗြိတိသျှစစ်ဌာနချုပ်များကိုလည်း မြန်မာနိုင်ငံအနှံ့ဖွင့်လှစ်ထားရှိခဲ့ရာ မုံရွာနှင့်ခုနစ်မိုင်ကွာဝေးသော အလုံမြို့သည် စစ်ဌာနချုပ်တစ်ခု ဖြစ်လာခဲ့ပါသည်။ အလုံမြို့သည် တပ်မြို့ဖြစ်လာသောအခါ အလုံမြို့၌ရှိသောအရေးပိုင်ရုံးကို မုံရွာသို့ရွှေ့ပြောင်းရန် စီစဉ်ခဲ့ကြသည်။*၃

စင်စစ်မုံရွာသည် သလ္လာဝတီခေါ် ချင်းတွင်းမြစ်၏အရှေ့ဘက်ကမ်းပေါ်၌ ထင်ရှားသော ဆိပ်ကမ်းရွာကလေးဖြစ်သည်။*၄ မုံရွာသည် အလုံစီရင်စု၌ပါဝင်သော ကျေးရွာဖြစ်ခဲ့သော်လည်း သီပေါမင်းလက်ထက်မှစ၍ တရုတ်,ကုလားလူမျိုးခြားများရောက်ရှိလာကာ ရောင်းရေးဝယ်တာ လုပ်ကိုင်တွင်ကျယ်နေမှုကြောင့် မြို့မကျတောမကျရွာကြီးသဖွယ် စည်ကားခဲ့လေသည်။*၅ မုံရွာကိုအုပ်ချုပ်ခဲ့သော ရွာသူကြီးများမှာ ဦးအိုကြီး၊ ဦးပေါ်ဦး၊ ဦးအို(ငယ်)၊ ဦးချစ်စုတို့ဖြစ်ကြပြီး နောက်ဆုံးရွာသူကြီးမှာ ဦးသာအိုဖြစ်သည်။*၆

မုံရွာနှင့်တစ်စပ်တည်းတည်ရှိသောရွာမှာ လေ့ကျူးရွာဖြစ်သည်။ လေ့ကျူးရွာသည် ချင်းတွင်းမြစ်ဆိပ်ကမ်းဦး၌တည်ရှိပြီး လှေကုန်သည်အများ စုဝေးနေထိုင်ရာရွာကြီးဖြစ်သည်။ သက္ကရာဇ်-၁၂၄၈ (အေဒီ–၁၈၈၆)ခုနှစ် ဗြိတိသျှအုပ်ချုပ်ရေးသမားများရောက်ရှိလာသောအခါက လေ့ကျူးရပ်၌အနေများကြ၍ လေ့ကျူးက မုံရွာထက်ပို၍စည်ကားခဲ့သည်။*၇ လေ့ကျူးရွာ၏မြစ်ဆိပ်ကမ်းနားပိုင်းတွင် ရုံးများတည်ရှိ၍ အထူးစည်ကားပြီး၊ မုံရွာမှာမူ ဆုတောင်းပြည့်ဘုရားကြီးအနီးတစ်ဝိုက်တွင် အစည်ကားဆုံးဖြစ်လေသည်။

---

*၁ Sir Fredrick Roberts

*၂ မြန်မာ့လွတ်လပ်ရေးကြိုးပမ်းမှုသမိုင်း၊ အပိုင်း(၁)။ ၁၉၈၆–ခုနှစ်။ (စာမျက်နှာ–၁၄၉)။

*၃ ၁၈၈၇–ခုနှစ်တွင် အလုံတွင် မြူနီစီပါယ်စနစ်ကိုကျင့်သုံးရာ အလုံမြို့လူထုကလက်မခံ၍ မုံရွာ၌မြူနီစီပါယ်ဖွဲ့စည်းခဲ့ရသဖြင့် ခရိုင်ဝန်ရုံးပါ မုံရွာသို့ရောက်ရှိပြီး မုံရွာမြို့စည်ကားလာရကြောင်း– အောင်သာဇံ၏ မနေ့ကနှင့်ယနေ့မုံရွာ(ဆောင်းပါး)။ ချင်းတွင်းမဂ္ဂဇင်း၊ ၁၉၇၉–ခုနှစ်၊ ဖေဖော်ဝါရီလ။ (စာမျက်နှာ–၉၅)။

*၄ ဝက်မစွတ်မြို့စားဝန်ထောက်မင်း၏ လေ့သင်းအတွင်းဝန်မင်းအတ္ထုပ္ပတ္တိ။ ဝေါဟာရလီနတ္ထဒီပနီ။ ဟံသာဝတီ၊ ရန်ကုန်မြို့၊ ၁၉၆၃–ခုနှစ်။ (စာမျက်နှာ–ဏ)။

*၅ ဝင်းမောင်၏ သမိုင်းထဲကမုံရွာ(ဆောင်းပါး)။ မုံရွာမြို့ရာပြည့်မော်ကွန်းစာစောင်။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၂၂)။

*၆ ရိုးရာသူကြီးဦးသာအိုကို ဦးအို–ဟုလည်းခေါ်သည်။ တိုးလှ၏ အညတြမုံရွာမှသည်(ဆောင်းပါး)။ မုံရွာကောလိပ်မဂ္ဂဇင်း၊ ၁၉၈၀/၈၁–ခုနှစ်။ (စာမျက်နှာ–၅၀)။

*၇ Gazetteer of Upper Burma and The Shan States. Part II, Volume II. 1901. Page-512.

မုံရွာ၏မြောက်ဘက်၌ လယ်တီအမည်ရှိတောကြီးသည် ရှေးအခါကပင်ရှိနေသော တောကြီးဖြစ်သည်။*၁ ထိုလယ်တီတောနှင့် မုံရွာအကြားရှိ ဆူးလေကုန်းအရပ်သည် လူနေအိမ် ဟူ၍ တစ်အိမ်စ နှစ်အိမ်စသာရှိပါသေးသည်။*၂ ထိုတစ်အိမ်စနှစ်အိမ်စမှာလည်း ကိုင်းသမား၊ ယာသမားတို့နေသော တဲအိမ်ကလေးမျှသာဖြစ်သည်။

**လယ်တီတောကြီး**

လယ်တီတောကြီးသည် မုံရွာ၏အရှေ့မြောက်ထောင့်အရပ် ဥပစာမှသော်*၃ ကုလလေးတာ ပြန်ငါးရာအကွာတွင်တည်ရှိပြီး တောရခေါ်ထိုက်လောက်အောင် တောအင်္ဂါနှင့်ပြည့်စုံလှပေ သည်။*၄

တောကျောင်း၏အကွာအဝေးကိုပြသော 'ကုလလေးတာ ပြန်ငါးရာ' ဟူသည် 'ကုလ လေးနှင့် တာလျှင် တာပေါင်းငါးရာရှိသည်' ကို ဆိုလိုသည်။ ဤတိုင်းနည်းကို သုတ္တန်ပိဋကဌကလာ တိုင်းထွာနည်းဟု ဝိသုဒ္ဓိမဂ္ဂအဌကထာ၌ပြဆိုထားပါသည်။*၅ 'ကုလလေး' ဟူသည်မှာ အိန္ဒိယ တိုင်းသား 'ကုလ' လူမျိုး (တစ်နည်း) ကုလားလူမျိုးတို့အသုံးပြုသော 'လေး' ကို ဆိုလိုသည်။ ထို ကုလလေးကိုတိုင်းရာတွင် နှစ်နည်းရှိ၏။ လေးကြိုးမတင်ဘဲ တာခြင်းနှင့် လေးကြိုးတင်ပြီးမှ တာခြင်းဟူ၍ဖြစ်၏။ လေးကြိုးမတင်ဘဲထားလျှင် ထိုလေးသည် လေးတောင့်တစ်ထွာရှိ၏။ လေးကြိုးတင်ထားသောအခါ လေးကိုင်းကွေးညွတ်သွားသောကြောင့် လေးတောင်သာသာရှိတော့ သည်။ ထိုလေးကြိုးတင်သဖြင့်ကွေးနေသော (တစ်နည်း) လေးတောင်ရှိသော ကုလလေးဖြင့် တာသော် မြို့ရွာနှင့်အပြန်ငါးရာ (တစ်နည်း) တာနှစ်ထောင်ကွာဝေးသော (ခေတ်တစ်မိုင်နှင့် တစ် ဖာလုံခန့်)အရပ်သည် တောရ–မှတ်ယူနိုင်ပြီဟု ဆိုလိုသည်။ သို့ဖြစ်၍ 'အရညခေါ် တောရ'

---

*၁ Htay Htay Lwin' History of the Maha Ledi Sasana. M.A. Thesis. 1998. Page-1.

*၂ သက္ကရာဇ် ၁၃၀၀–ပြည့် (အေဒီ–၁၉၃၈)ခုနှစ်မတိုင်မီအထိ ဆူးလေကုန်း၌ လူနေကြဲပုံနှင့်စပ်၍– ထိုစဉ်က လယ်တီပဏ္ဍိတ ဆရာဦးမောင်ကြီး ဆူးလေကုန်း၌မြေဝယ်သောအခါ အရပ်က 'ဦးမောင်ကြီး တောထဲမြေဝယ်နေသည်' ဟု ရယ်သွမ်းသွေး ခံရကြောင်း ဆရာကြီးကတော်ဒေါ်အေးက (၇–၈–၁၉၈၄)နေ့တွင်ပြောပြပါသည်။

*၃ ထိုစဉ်က မုံရွာ၏ မြို့စွန်မှာ ယခု ဗိုလ်ချုပ်လမ်း၊ ရှမ်းတောရပ် ဇရပ်ဝိုင်းရှိ မြို့တော်ရှင်နတ်ကွန်းနေရာဖြစ်သည်။ မုံရွာမြို့ ရွှေစည်းခုံစေတီတော်မြတ်ကြီးဘုရားသမိုင်း။ ရွှေစည်းခုံစေတီတော်ဂေါပက၊ မုံရွာမြို့။ ၂၀၀၆–ခုနှစ်။ (စာမျက်နှာ–၂၉)။

*၄ လယ်တီဆရာတော်ကြီးက လယ်တီတောရ၏ တောအင်္ဂါညီပုံကို သဂြိုဟ်မဟာဋီကာသစ်၏ အဖွင့် အနုဒီပနီပါဌ်တွင်– 'တံ ပန မုံရွာနဂရဿ ဒေသန္တေ ပဉ္စဓနုသတိကေ ပဒေသေဇာတံ' ဟုလည်းကောင်း၊ လယ်တီဆရာတော်ကြီး၏ အနုဒီပနီပါဌ်။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၂၀–ပြည့်နှစ်။ (စာမျက်နှာ–၃၂၃)။ ရူပဒီပနီကျမ်း၏ နိဂုံး၌လည်း– 'လေ့ကူး အမည်ရှိသော ရွာမြတ်၌၊ အရညေ–ကုလလေးတာ ပြန်ငါးရာမျှ အကွာထောင့်သန်း ငှက်မင်းနန်းဝယ် ရပ်ချမ်းသို့သိုက် မြိုက်တောချောင်တိုက်' ဟုလည်းကောင်း ရေးဖွဲ့တော်မူပါသည်။ မုံရွာလယ်တီတောရဆရာတော်၏ ရူပဒီပနီနှင့်နိဗ္ဗာနဒီပနီ။ ဟံသာဝတီသတင်းစာတိုက်၊ ရန်ကုန်မြို့။ ၁၂၆၂–ခုနှစ်။ (စာမျက်နှာ–၁၀၃)။

*၅ အာရညကံ နာမ သေနာသနံ ပဉ္စဓနုသတိကံ ပစ္ဆိမန္တိ ဣဒံလက္ခဏံ– ဝိသုဒ္ဓိ၊ ၁။ ၇၀။ အရှင်သောမာဘိသိရီ၏ တေပိဋကသာရရတနာဝလီ။ မန္တလေးတိုင်းသတင်းစာပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၂၇၈–ခုနှစ်။ (စာမျက်နှာ–၂၄)လည်းရှု။

ဆိုသည်မှာ မြို့ဉပစာမှ ကွေးနေသော ကုလလေးဖြင့်တာလျှင် အပြန်ငါးရာ = တာနှစ်ထောင် အကွာတွင်ရှိသောအရပ်မျိုးဖြစ်ပါသည်။

သို့လျှင် မုံရွာ၏ဉပစာမှ ကုလလေးတာပြန်ငါးရာ အကွာအဝေး၌တည်ရှိသော လယ်တီ တောကြီးအတွင်း အပူပိုင်းဒေသတို့၌တွေ့ရသော ဇီး, ခံ, ဖောင်းချမ်း, ဆူးရစ်, ခြိုစပျစ်, ထနောင်း, မွန်းနံ, ကျားလျှာ, ကြောင်ပန်း, မိကျောင်းပန်း, တန်ဆောင်းပြာသာဒ်, မန်ကျည်း, ကုက္ကို–စသည့်သစ်ပင်ကြီးငယ်ချုံနွယ်ပိတ်ပေါင်းတို့ နေခြည်နေပြောက်ထိုးဝင်၍မရနိုင်လောက် အောင် ထူထပ်ပြည့်သိပ်စွာ ပေါက်ရောက်၍နေပါသည်။[*၁] ထိုတောကြီးအတွင်း ညီညာစွာ ပြန့်ပြူးသောမြေဆို၍ အနည်းငယ်သာရှိပြီး၊ ထိုမြေမှာလည်း အထက်ပိုင်းက ကျောက်စရစ် သဲမြေ၊ အောက်ပိုင်းကန့်မြေဖြစ်လေရာ[*၂] စားပင်သီးပင်စိုက်ပျိုး၍မရသည့် မြေညံ့မျိုးဖြစ်သည်။[*၃] စိုက်ပျိုး၍မရသောမြေသားတည်ရှိနေသဖြင့် လယ်တီတောကြီးအတွင်း သစ်ပင်ချုံပင်များခုတ်ထွင် ရှင်းလင်းပြုပြင်မည့်သူမရှိဘဲ သဘာဝအတိုင်းပစ်ထားခဲ့ကြရာ နှစ်ကာလကြာမြင့်လာသောအခါ မြွေအောင်း,ကျားအောင်း,ဆင်အောင်းသောတောကြီးအဖြစ်သို့ ရောက်ခဲ့ရခြင်းဖြစ်သည်။

ထိုမျှနက်ခေါင်လှသော လယ်တီတောကြီးအတွင်း၌ ကေစာကျင့်သုံးနေတော်မူသော အရှင်ဉာဏအဖို့မှာကား ဤနေရာကိုနတ်များဖန်၍ရောက်လာရသကဲ့သို့ အလွန်နှစ်သက်မွေ့လျော် နေတော်မူပါသည်။ သစ်ပင်တောချုံရင်းတည်းဟူသော သင်္ခမ်းကျောင်းနေရာသည် ကိလေသာ ရန်သူတို့ကိုဖြိုဖျက်လိုသော ရသေ့ရဟန်းသူတော်စင်တို့အတွက် ရန်အောင်မင်္ဂလာမဟာခံတပ် မြို့တော်ကြီးဖြစ်သည်ဟူ၍လည်း ထင်မှတ်တော်မူခဲ့သည်။ ထင်မှတ်တော်မူသည့်အတိုင်း တောရ နေခြင်း၏အကျိုးကျေးဇူးများကို အောက်ပါအတိုင်းမိန့်ကြားတော်မူလေ့ရှိပါသည်။

> 'အသိန်းအသန်းမျှသောရန်သူတို့ကို တစ်ယောက်အားဖြင့်ဖြိုဖျက်လိုသော သူသည် ထိုရန်သူတို့၏အလယ်၌နေ၍ လုပ်ကြံခြင်းငှာမတတ်ကောင်း၊ ထိုရန်သူတို့၏ အလယ်မှထွက်၍ လွတ်ရာအရပ်၌နေမှသာ လက်နက်ကိရိယာ, ရိက္ခာစားနပ်,

---

*၁ လယ်တီပဏ္ဍိတ၏သဒ္ဒမဉ္ဇရီကျမ်း။ ၁၂၉၆–ခုနှစ်။ (စာမျက်နှာ–၄၄၃)။ လယ်တီ ဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၇၉)။ မုံရွာမြို့ မဟာလယ်တီတိုက်၊ နိဗ္ဗာနဒီပနီကျောင်းဆရာတော် ဦးနန္ဒမာလာ၏ (၂၃–၄–၁၉၇၆)နေ့ မိန့်ဆိုချက်နှင့် ဆရာသဲကြီးသမီး ဒေါ်တင်တင်၏(၈–၈–၁၉၈၄)နေ့ပြောပြချက်တို့မှဖြစ်သည်။ လယ်တီတိုက်တည်စကပင် လယ်တီတိုက်၌နေထိုင်ခဲ့ဖူးသော ဦးနန္ဒိယ(သဲဖြူဆရာတော်?)က 'မုံရွာမြို့အနီး ဆီး,ခံ,ရှားစောင်း,ထနောင်း,ဆူးရစ်, စေးပျစ်တောချုံ ရဂုံမန္တေ အရည်ဒေ၌'ဟု နိဗ္ဗာနမဂ္ဂဒီပနီကျမ်းဦး၌ဖော်ပြထား၏။ ဦးနန္ဒိယ၏ နိဗ္ဗာနမဂ္ဂဒီပနီကျမ်း။ ဂုဏဝတီစာပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၂၈၈–ခုနှစ်။ (စာမျက်နှာ–နိဒါန်း)။

*၂ သက္ကရာဇ်–၁၃၂၁ (အေဒီ–၁၉၅၉)ခုနှစ် မုံရွာမြို့ မဟာလယ်တီတိုက် (၅၁)ကြိမ်မြောက် လယ်တီဆရာတော်ဘုရား မွေးနေ့ပွဲတော်လက်ကမ်းစာလွှာမှ။

*၃ 'လယ်တီ'ဟူသောဝေါဟာရတွင် 'တီ'ဆိုသည်မှာ မုံရွာစသည့်ဒေသတို့၌ စိုက်ပျိုး၍မရသောမြေညံ့၊ မြေဆီမြေနှစ်မရှိ ပကားမြေကို ဆိုလိုပါသည်။ ထိုစဉ်က နိုးသန်း, ကံပြား, ရှားပေါက်တောစသောရွာများက လယ်ယာလုပ်မရသောမြေကို 'လယ်တီ'ဟူ၍ပင်ခေါ်ဝေါ်ကြ၏။ မဟာလယ်တီတိုက်ကြီးအကြောင်းသိမှတ်ဖွယ်ရာအကျဉ်းချုပ်။ ၁၉၈၆–ခုနှစ်။ (လက်နှိပ်စက်မှု)။ (စာမျက်နှာ–၆)။

ဗိုလ်ခြေတပ်ခြေတို့ကို လုံလောက်အောင်စုရုံးခြင်းငှာ အခွင့်ရသည်။ ထိုအခွင့်ကိုရ၍ အလုံးစုံအားပြည့်မှသာ ထိုရန်သူတို့ကို အကြွင်းမဲ့ဖြိုဖျက်ခြင်းငှာ ထမြောက်အောင် ကြံနိုင်သည်။

ထို့အတူ အသိန်းအသန်းမကသော ကိလေသာရန်သူတို့ကိုလုပ်ကြံတော်မူကြကုန်သော အလုံးစုံသော ဘုရား,ပစ္စေကဗုဒ္ဓါ,သာဝကရသေ့ရဟန်းဟူသမျှတို့သည် ကိလေသာကာမဂုဏ်တို့၏ပေါင်းရုံးစုဝေးရာ မြို့ရွာနိဂုံးမှခွာ၍ တော,တောင်,သစ်ပင်,ချုံပင်, နွယ်, ပိတ်ပေါင်းတို့ကို ခံမြို့ပြု၍နေမှသာ သတိပဋ္ဌာန်,သမ္မပ္ပဓာန်စသော လက်နက်ကိရိယာ ရိက္ခာစားနပ် ဗိုလ်ခြေတပ်ခြေတို့ကို လုံလောက်အောင်စုရုံးခြင်းငှာ အခွင့်ရသည်။ ထိုအခွင့်ကိုရ၍ အလုံးစုံအားပြည့်မှသာ ထိုရန်သူတို့ကို အကြွင်းမဲ့ဖြိုဖျက်ခြင်းငှာ ထ,မြောက်အောင်ကြံနိုင်သည်။ ထို့ကြောင့် သစ်ပင်တောချုံတို့သည် အလုံးစုံသော ဘုရား,ပစ္စေကဗုဒ္ဓါ,အရိယာသူမြတ်တို့၏အောင်တပ်တည်ရာ မဟာခံမြို့ကြီးတွေဖြစ်ကုန်၏။

ရုက္ခမူလ သေနာသန–ဟူသော ရန်အောင်မင်္ဂလာ မဟာခံတပ်မြို့တော်ကြီးကို စွန့်ပစ်၍ မြို့ရွာနိဂုံးအနီးဥပစာ၌ ရွာသူတို့၏အခက်အနက် စနုတ်စပေါက်ကိုမြော်၍ ပျော်ရွှင်ချမ်းမြေ့ မေ့ကြီးမေ့လျက်နေကြကုန်သော ပုထုဇဉ်ရဟန်းတို့သည် မြို့သူရွာသူ လူဂဟဋ္ဌတို့နှင့်မခြားနား အဖျားအရင်းမျှသာဖြစ်ကြ၍ ကိလေသာရန်သူတို့၏လက်တွင်း၌ သေခြင်းမလှသေကြကုန်၏။ သတိမူကြပါကုန်’*၁–ဟူ၍ဖြစ်ပါသည်။

**တောအန္တရာယ်**

‘တောကြက်တွန်မြူး၊ ကျေးငှက်ကြူး၍၊ သံကျူးမြည်စည်၊ စက်ရိပ်လည်၍၊ နေခြည်ဝင်မြောက်၊ ဆည်းဆာရောက်သော်၊ မျောက်ကကြိုးခွေ၊ ဒေါင်းအိုးဝေနှင့်၊ သံခြေကြွေးကြော်၊ ဖိုမပေါ်၏’ –ဟူသော အရှင်မဟာရဋ္ဌသာရ၏တောလားရတုလာ တောဘွဲ့အတိုင်းပင်*၂ နေရောင်ခြည်ရုပ်သိမ်းသည့် ညနေချမ်းအခါ ဆည်းဆာချိန်သို့ရောက်လတ်သော် လယ်တီတောကြီးအတွင်း ကြက်ငှက်စသောသတ္တဝါတို့၏ကြူကြူကျာကျာမြည်တွန်သံတို့ ပေါ်ထွက်လာ၏။ နေလုံးကြီးဝင်သည်နှင့်အမှောင်ကြီးစိုးလာလေရာ တောကြီးမျက်မဲတောနက်ထဲ တစ်ပါးတည်းနေရသည့်အတွက် သာမန်လူတို့အဖို့မှာကား ကြောက်အားပိုကာ ကြက်သီးမွေးညင်း ဖြန်းခနဲထ,လောက်၏။ ထိုအချိန်မှာပင် အရပ်လေးမျက်နှာတို့မှလည်း လေပြင်းများတိုက်ခတ်၍လာကြကုန်၏။*၃

---

*၁ လယ်တီဆရာတော်ကြီး၏ ဥပသမ္ပဒဝိနိစ္ဆယ။ မဟာသယနဒီပနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁၅၁)။

*၂ အရှင်မဟာရဋ္ဌသာရ၏ ပကိဏ္ဏကစာစု။ မြန်မာနိုင်ငံသုတေသနအသင်း၊ ရန်ကုန်မြို့။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၆)။

*၃ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၃၀)။

လယ်တီတောကြီးသည် အမနုဿ*၁ ခေါ် လူမဟုတ်သော, လူနှင့်တူသော, လူယောင်ဆောင်နိုင်သော နတ်,ဘီလူး,ပံသုပိသာစကခေါ် အသားစားပြိတ္တာ, မြေဘုတ်တစ္ဆေသားရဲနှင့် ရက္ခိုသ်၊ သစ်ပင်ဘုံဗိမာန်ကိုပိုင်ဆိုင်သော ဝေမာနိကပြိတ္တာမျိုးတို့ရှိကြသည်ဟု သတင်းကျော်နေသောတောကြီးဖြစ်လေရာ၊ ဘုန်းတော်ကြီးအရှင်ဉာဏအဖို့မှာ ဤသို့လေပြင်းတိုက်လာသည့်အခါ 'ဤလယ်တီတောကြီးသည် လူမဟုတ်သော အမနုဿတို့ကျင်လည်ကျက်စားရာ အမနုဿဌာန အမနုဿပရိဂ္ဂါဟကတောကြီးလေလား' ဆင်ခြင်တော်မူခဲ့ပါသည်။

## မေတ္တာကမ္မဋ္ဌာန်းစီးဖြန်းတော်မူခြင်း

ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ၌ ယောဂီရဟန်းတို့နှင့်မသင့်လျော်သော ကျောင်းအရပ်တစ်ဆယ့်ရှစ်ဌာနကိုပြဆိုထား၏။ ထိုတစ်ဆယ့်ရှစ်ရပ်သောဌာနတို့တွင် 'မလျောက်ပတ်သောကျောင်းနေရာ (အသပ္ပါယတာ)'လည်း တစ်ခုအပါအဝင်ဖြစ်သည်။ 'မလျောက်ပတ်သောကျောင်းနေရာ' ဆိုသည်မှာ 'အမနုဿ ပရိဂ္ဂဟိတတာယ ဝါ အသပ္ပါယတာ'ဟု ဖွင့်ပြတော်မူခဲ့၏။ (ဝိသုဒ္ဓိ၊ ၁၊ ၁၁၈။)။ အဓိပ္ပာယ်မှာ– 'အမနုဿ ပရိဂ္ဂဟိတတာယ ဝါ = နတ်,ဘီလူးတို့သိမ်းဆည်းထားအပ်သောကြောင့်လည်းကောင်း၊ အသပ္ပါယတာ=မလျောက်ပတ်သောကျောင်း၏အဖြစ်သည်'ဟု ဖြစ်၏။

လယ်တီတောကြီးကို မည်သည့်နတ်ဘီလူး၊ မည်သည့်နတ်မင်းတို့ကစောင့်ရှောက်ခဲ့သည်ဟူ၍ကား အမှတ်အသားအပြောအဆို မရှိခဲ့သော်လည်း၊ မည်သည့်ပုဂ္ဂိုလ်မဆို မိမိတို့နေရာသို့ တစ်ပါးသူရောက်လာလျှင် အာဝါသမစ္ဆရိယဖြစ်စမြဲရှိကြရာ ဘုန်းတော်ကြီးရှင်ဉာဏသည် ဤတောကြီးအတွင်းနေ ထိုထိုသောပုဂ္ဂိုလ်သတ္တဝါတို့အား မိမိအပေါ် အာဝါသမစ္ဆရိယမဖြစ်ကြဘဲ မေတ္တာသက်ဝင်ကြစေခြင်းအလို့ငှာ သူတော့်လက်သုံးမေတ္တာထုံးဖြင့် လယ်တီတောကြီး၏အရပ်ရှစ်မျက်နှာနေရာအနှံ့ မေတ္တာကွန်ယက်ဖြန့်ကျက်တော်မူခဲ့ပါသည်။

အရှင်မြတ်၏သီလကိုကြည်ညို၍ မေတ္တာပို့လွှတ်ရုံမျှဖြင့်နူးညံ့ယဉ်ပါးသော အမနုဿတို့ ရှိကြသကဲ့သို့၊ မေတ္တာပို့လွှတ်ပါလျက် အရှင်မြတ်အပေါ်၌ မေတ္တာမသက်ဝင်နိုင်ဘဲ တင်းမာခက်ထန်သောပုဂ္ဂိုလ်တို့သည်လည်း ရှိကြဦးမည်သာဖြစ်၏။ ထိုခက်ထန်သောပုဂ္ဂိုလ်တို့အဖို့မှာ ဤလယ်တီတောကြီးအတွင်း အရှင်မြတ်မနေဝံ့လေအောင် လေပြင်းများကို မရပ်မနားတိုက်ခတ်ကာ အနှောင့်အယှက်ပြုကြပြန်၏။

---

*၁ လယ်တီဆရာတော်ကြီးက အမနုဿနှင့်စပ်၍– 'လောက၌အလွန်ကြမ်းတမ်းကုန်သော သရဲသဘက်,မြေဘီလူး,ရေဘီလူး, ကုန်းဘီလူး, ကောင်းကင်ဘီလူးတို့မည်သည်ရှိကုန်၏။ ထိုမြေဘီလူးစသည်တို့ကိုပင်လျှင် အမနုဿဟူ၍လည်းကောင်း၊ အဝရုဒ္ဓကဟူ၍လည်းကောင်း၊ သရဲသဘက်တို့ဟူ၍လည်းကောင်း၊ အစိမ်းအဝါးတို့ဟူ၍လည်းကောင်း ခေါ်ဆိုကြ၏။ ထိုနတ်ဆိုးနတ်ဝါးတို့သည် စတုမဟာရာဇ်နတ်မင်းကြီးတို့၏ အုပ်စုနယ်တွင် အပါအဝင်ဖြစ်ကြကုန်၏' ဟုရေးသားတော်မူခဲ့ပါသည်။ လယ်တီဆရာတော်ကြီး၏ ဥရောပဗုဒ္ဓဘာသာအလင်းပြကျမ်း။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ–၇၅)။ အမနုဿ–ပုဒ်အဖွင့်ကို တိပိဋကပါဠိမြန်မာအဘိဓာန်ကျမ်း၊ အတွဲ–၃။ (စာမျက်နှာ–၃၃၄) လည်းရှု။

ထိုအခါဝယ် အရှင်မြတ်သည် မန်ကျည်းပင်ကြီးကိုအမှီပြုလျက် လယ်တီတောကြီးအတွင်းရှိ တောသူတောသားအမနုဿအပေါင်းတို့ကိုရည်မှန်းကာ အောက်ပါအတိုင်းအဓိဋ္ဌာန်ပြုပြီးမိတ်ဖွဲ့တော်မူခဲ့ပြန်၏။ ရှေးဦးစွာ အရှေ့အရပ်သို့အာရုံပြုလျက်–

'ဤတောအရှေ့အရပ်မျက်နှာရှိ အမနုဿဖြစ်သော ပေတ,ယက္ခအပေါင်းတို့...။ ငါသည် ဤတော၌ မြို့ရွာ၏အကျိုး, သာသနာမြတ်၏အကျိုးကို ဖြစ်ထွန်းကြီးပွားအောင် ဆောင်ရွက်ခြင်းငှာ သင်တို့၏အမိအရာ, အဖအရာ, အဆွေအရာမျိုးအရာ၌ တည်နေမည်။ သင်တို့ကလည်း ငါ့ကိုအမိအရာ, အဖအရာ, အဆွေအရာမျိုးအရာ၌ ထား၍ တစ်စုံတစ်ခု နှောင့်ယှက်ခြင်းကိုမပြုဘဲ ကောင်းမွန်ချမ်းသာစွာနေထိုင်ကြရမည်'

ဟု အဓိဋ္ဌာန်ပြု၏။ တောင်ဘက်အရပ်ရှိ တောသူတောသား အမနုဿတို့ကို အထက်ပါအဓိဋ္ဌာန်စကား မိတ်ဖွဲ့တော်မူ၏။ ထိုနည်းအတူ အနောက်အရပ်၊ မြောက်အရပ်တို့၌ရှိသော တောသူတောသား အမနုဿတို့ကိုလည်း အထက်ပါနည်းအတိုင်းမိတ်ဖွဲ့တော်မူခဲ့၏။*၁

ဤသို့မိတ်ဖွဲ့ပြီးတော်မူပြီးနောက် လယ်တီတောကြီးအတွင်းရှိ ပြင်းထန်ကြမ်းထန်သော အမနုဿပုဂ္ဂိုလ်တို့ထံသို့ အထူးရည်မှန်း၍ မေတ္တာကိုတစ်လုံးတစ်စည်းတည်းပြု၍ လေးလေးနက်နက် ပို့တော်မူပြန်ပါသည်။ ထိုအချိန်မှာပင် အရှင်ဉာဏ၏ ပို့လွှတ်ဖြန့်ဝေအပ်သောမေတ္တာကြောင့် အရပ်လေးမျက်နှာတို့မှတိုက်ခတ်လာသောလေပြင်းတို့ ရပ်စဲ၍သွားကြလေပြီ၊ မြည်ဟည်းနေသောအသံတို့လည်း ဆိတ်ငြိမ်၍သွားခဲ့ကြလေပြီ၊ ပတ်ဝန်းကျင်တစ်ခွင် တောကြီးတစ်အုပ်လုံးသာယာရွှန်းစိုကာ ငြိမ်းအေးခဲ့လေပြီ၊ တောနေသတ္တဝါတို့ကလည်း မိမိတို့၏အကျိုးကိုလိုလားကာ မေတ္တာပွားများနေသော အရှင်ဉာဏအပေါ်၌ မေတ္တာဓာတ်ခိုက်ကြလျက် ထိုနေ့ထိုရက်ထိုအချိန်မှစ၍ စောင့်ရှောက်ကြကုန်၏။

စင်စစ်လယ်တီတောရကြီးအတွင်းရှိ အမနုဿတို့ ငြိမ်ဆိတ်အေးဆေးသွားခဲ့ကြသည်မှာ အရှင်ဉာဏ၏အဓိဋ္ဌာန်အစွမ်းနှင့် မေတ္တာတရားတော်ဂုဏ်ကြောင့်သာမက ဤအရှင်မြတ်၏ဖြူစင်သောသီလတော်အစွမ်း, သန္တုဋ္ဌိ ခေါ် ခြိုးခြံသောအကျင့်တို့၏အစွမ်းသည်လည်းအပါအဝင်ဖြစ်တော့သည်။*၂

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၃၀)။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၈၃)။ အရှင်ကေလာသ၏ အန္တရာယ်ကင်းဝေးချမ်းသာရေး။ ၁၉၉၃–ခုနှစ်။ (စာမျက်နှာ–၁၁၀)၌မူ 'ထိုထနောင်းပင်ကြီးသည် ယခုကျောက်စာတိုက်ကြီး၏တည်ရာ အရှေ့မျက်နှာတွင်ရှိသည်။ ထိုထနောင်းပင်၌ အလွန်တန်ခိုးထက်မြက်သောရုက္ခစိုးကြီးတစ်ဦးရှိပြီး လယ်တီဆရာတော်ကြီးသည် ထိုရုက္ခစိုးကြီးအား ရည်ရွယ်၍ ကကုသန္ဓော ကောဏာဂမနော–အစရှိ သဗ္ဗသိဒ္ဓိဂါထာကိုရွတ်ဆိုပြီး မိတ်ဖွဲ့မေတ္တာပို့တော်မူခဲ့သည်' ဟု ဖော်ပြထား၏။

*၂ အရည်အသွေးဝါသရဟန်းအား– သီလက္ခန္ဓ, ဣန္ဒြိယသံဝရ, သတိသမ္ပဇဉ, သန္တုဋ္ဌိ– ဤအကြောင်းလေးပါးနှင့်မပြည့်စုံလျှင်တောင်စောင့်နတ်များကခြောက်လှန့်၍ ပြေးစေတတ်သည်။ ဒီ၊ ဋ္ဌ၊ ၁။ ၁၈၇။ ဦးသောမာဘိသိရီ၏ တေပိဋကသာရ ရတနာဝလီကျမ်း။ ၁၂၇၈–ခုနှစ်။ (စာမျက်နှာ–၂၅)။

ငှက်ကလမ်းပြခြင်း

အရှင်ဉာဏသည် လယ်တီတောရကြီးအတွင်း၌ တစ်ညဥ့်တာမေတ္တာကမ္မဋ္ဌာန်းစီးဖြန်း၍ တရားဘာဝနာအလုပ်ဖြင့်မွေ့လျော်ပျော်ပိုက်နေတော်မူခဲ့ပြီးနောက်၊ နံနက်အရုဏ်တက်လေလျှင် တရားအလုပ်ကိုဖြုတ်ပြီး မန်ကျည်းပင်ရင်း၌ ချမ်းမြေ့စွာသီတင်းသုံးနေတော်မူခဲ့လေ၏။*၁

လယ်တီတောအုပ်အတွင်းသို့ နေအလင်းရောက်၍လင်းချင်းလာသော် ခပ်လှမ်းလှမ်းမှ တုတ်,ဓားတဝင့်ဝင့်ဖြင့် ဆူဆူညံညံဝင်လာကြသောအသံတို့ကို ကြားနေရ၏။ ထိုအသံတို့ကား လေ့ကူးနှင့်မုံရွာအရပ်မှ ဘုန်းတော်ကြီးအရှင်ဉာဏကိုရှာဖွေရန်လာကြသော ဒကာတို့၏အသံများပင်ဖြစ်သည်။ ကျောင်းဒကာသဂြိုဟ်ဦးဝိုင်း၊ ဦးတောက်၊ ဦးလတ်ကြီးစသောဒကာတို့နှင့် အရှင်မြတ်၏ တပည့်ရဟန်းတော်တို့စုဝေးကြကာ မိမိတို့ဘုန်းတော်ကြီးအား လယ်တီတောကြီးအနှံ့ ဝင်ရောက်ရှာဖွေနေကြခြင်း ဖြစ်သည်။

ကျောင်းဒကာကြီးသဂြိုဟ်ဦးဝိုင်းမှာ မိမိဘုန်းကြီး၏တဖွတ်တရွတ်လုပ်တတ်သောဉာဉ်ကို သိပြီးဖြစ်လေရာ ဤဆင်အောင်း,ကျားအောင်း နက်လှစွာသောတောကြီးအတွင်း အဖော်မမှီး တစ်ကိုယ်တည်း သစ်ပင်ဝါးပင်အောက်မှာဖြစ်သလိုသီတင်းသုံးခဲ့သဖြင့်၊ ယမန်နေ့ညကပင် ဘုန်းတော်ကြီးအရှင်ဉာဏ ကျားစာဖြစ်ခဲ့လေပြီလောဟု စိုးရိမ်စိတ်ပူပန်နေရှာသည်။ ကျောင်းဒကာကြီးဦးဝိုင်းသည် ရှာ၍မတွေ့လေ စိုးရိမ်စိတ်ပိုကြီးလေ ဖြစ်လာ၏။

လယ်တီတောအတွင်း ဟိုဟိုသည်သည်ရှာဖွေနေကြစဉ် ထက်ကောင်းကင်ယံတွင် ငှက်များစွာတို့ အုတ်အုတ်ကျက်ကျက် အုပ်စုလိုက်ပျံဝဲနေသည်ကို မြင်ကြရသည်။ ထိုငှက်များပျံဝဲနေသောနေရာကိုမှန်းဆကာ ရှေ့သို့တိုးလာကြ၏။ ဦးဝိုင်း၏စိတ်အတွင်း၌ 'သြော်-ငါ့ဘုန်းကြီး သားရဲစာဖြစ်၍ အရိုးအယှင်းမျှကျန်လေရကာ ငှက်တွေထိုးဆိတ်ကုန်လေပြီ'ဟု ထင်မှတ်ကာ အလွန်ပူဆွေး သောကကြီးစွာရောက်ရပြန်ပါသည်။

ငှက်များလမ်းပြသည့်အတိုင်း ရှေ့သို့တိုး၍တိုး၍လာခဲ့ကြရာ လယ်တီတောကြီး၏အလယ် ထနောင်းပင်ကြီးအနီး မန်ကျည်းပင်အောက်၌ သားရေနယ်ချပ်ပေါ်တွင် တရားနှလုံးသွင်း၍ တင့်တယ်စွာသီတင်းသုံးနေတော်မူသော ဘုန်းတော်ကြီးအရှင်ဉာဏကို ဖူးမြင်လိုက်ကြရလျှင် လိုက်လံရှာဖွေကြသူ ရဟန်းရှင်လူအပေါင်းတို့မှာ အလွန်အမင်းနှစ်ထောင်းအားရ ဝမ်းသာကြ လျက် မြေနှင့်နဖူးဂဟေပူးသို့ ကြည်နူးမဝ ရှိခိုးလိုက်ကြပါတော့သည်။*၂

လယ်တီတိုက်အစ မန်ကျည်းပင်ကျောင်းလေးက

ကျောင်းဒကာကြီးသဂြိုဟ်ဦးဝိုင်းနှင့် ဒကာကြီးများက ဘုန်းတော်ကြီးအရှင်ဉာဏအား မြို့ကျောင်းသို့ပြန်လည်သီတင်းသုံးတော်မူပါရန်အမျိုးမျိုးအဖုံဖုံလျှောက်ထားကြသည်။ မည်သို့ပင်

*၁ 'ထိုနေ့အာရုဏ်ချိန်တွင် လယ်တီတောအတွင်းရှိ ထနောင်းပင်စောင့်(ရက္ခစိုးကြီး)ကပင် အာရုံဆွမ်းဆက်ကပ်လာသည်'ဟု ရွှေမှုံတင်၏ လယ်တီနေမင်းကျမ်း။ (စာမျက်နှာ-၆၅)၌ ရေးထား၏။

*၂ ဆရာစိုး၏ လယ်တီဆရာတော်ဘုရားကြီးအတ္ထုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ-၁၀)။



မုံရွာမြို့၊လယ်တီတောရကြီးအတွင်း၌
လယ်တီဆရာတော်ကြီးလောင်းလျာအရှင်ဉာဏ တောရတည်ဆောက်နေဟန်သရုပ်ဖော်ပုံ



လယ်တီတောရအတွင်း လယ်တီဆရာတော်ကြီး ရှေးဦးပထမသီတင်းသုံးတော်မူသောနေရာ၏
အထိမ်းအမှတ်ဗိမာန်တော်ကြီး

လျှောက်ထားစေကာမူ ဘုန်းတော်ကြီးအရှင်ဉာဏ လက်မခံဘဲငြင်းပယ်တော်မူခဲ့သည်။ ထိုအခါ ကျောင်းဒကာကြီးသင်္ဂြိုဟ်ဦးဝိုင်းက နည်းပရိယာယ်ဖြင့် ‘လယ်တီတောသည် အချောက်အလှန့် အလွန်ထူပါသည်ဘုရား၊ အစိမ်းသရဲတစ္ဆေတွေလည်း အလွန်ပေါများပြီး ကြမ်းတမ်းလှပါသည် ဘုရား၊ ဤမျှကြမ်းတမ်းလှသောလယ်တီတောကြီးမှတစ်ပါး အခြားသပ္ပါယဖြစ်သည့် တော တစ်တောသို့ရွှေ့ပြောင်း၍ သီတင်းသုံးကာ တရားဘာဝနာအလုပ်ကိုအားထုတ်သင့်ပါသည်ဘုရား။ မြို့ကျောင်းမခင် တောရခိုဝင်ကာနေလိုပါလျှင်လည်း မိမိတို့ တပည့်ဒါယကာအပေါင်းတို့က အရှင်ဘုရားသီတင်းသုံးလိုသောတောရအတွင်း ကျောင်းသင်္ခမ်းကိုဆောက်လုပ်ပြီး လှူဒါန်းမည် ဖြစ်ပါသည်ဘုရား’စသည်ဖြင့်လျှောက်ထားပြန်ရာ ဘုန်းတော်ကြီးအရှင်ဉာဏက ‘ဤတောသည် သင်တို့အတွက် ကြမ်းသည်မှန်၏၊ ငါ့အတွက် ကြမ်းတော့မည်မဟုတ်။ ဤတောမှတစ်ပါး အခြားတောသို့ ငါမရွှေ့ပြောင်းလိုတော့ပြီ။ ဤတောဤသစ်ပင်ရိပ်သည်ပင် ငါ၏သင်္ခမ်းကျောင်း ဖြစ်ပြီ’ဟူ၍ ပြတ်ပြတ်သားသား မိန့်ကြားတော်မူလေသည်။*၁

ထို့နောက် ဘုန်းတော်ကြီးအရှင်ဉာဏက ‘ငါ့မှာတစ်ယောက်တည်းဆိုသော်လည်း အားကိုးရာ မဲ့နေသည်မဟုတ်၊ မိမိ၏မေတ္တာစာတ်ကိုအားကိုး၍ ဤကြမ်းလှသည်ဆိုသော လယ်တီတောကြီး အတွင်းမှာပင် သီတင်းသုံးနေလိုသည်’ဟု အမိန့်ရှိတော်မူခဲ့လေသည်။*၂

ကျောင်းဒကာကြီးသင်္ဂြိုဟ်ဦးဝိုင်းက မိမိဘုန်းကြီး၏တင်းမာသောစိတ်ဓာတ်ကိုသိပြီးဖြစ်သော ကြောင့် တောင်းပန်ပြောဆိုနေ၍ရမည်လည်းမဟုတ်ရကား ဘေးအန္တရာယ်များလွန်းလှသော ဤတောကြီးအတွင်း အကာအရံအဖြစ် ကျောင်းသင်္ခမ်းကလေးတစ်ဆောင် စီမံပေးမှသင့်တော့ မည်ဟု နှလုံးသွင်းပြီးလျှင် ထိုမန်ကျည်းပင်အနီး ကျောင်းတစ်နေရာစာချုံနွယ်ပိတ်ပေါင်းတို့ကို ရှင်းလင်းကြသည်။ ထို့နောက် သွပ်,သံ,အုတ်စသည်မပါဘဲ မီးထိဖယောင်းကဲ့သို့ ညွှန့်ပျောင်း အိသောကြိမ်၊ အဆစ်အမြစ်လှပသောဝါးကြီးဝါးငယ်တို့ဖြင့် သပ်ရပ်လုံခြုံသောဝါးညိုကျောင်း သင်္ခမ်းကလေးတစ်ဆောင်ကို နေ့ချင်းပြီးအမြန်စီမံကြလေသည်။ ဝါးကျောင်းကလေးပြုလုပ်ပြီးသော အခါ ကျောင်းဒကာကြီးသင်္ဂြိုဟ်ဦးဝိုင်းနှင့် ဒကာတစ်စုတို့က ဘုန်းတော်ကြီးအရှင်ဉာဏအား လှူဒါန်းခဲ့ကြပါသည်။*၃

ထိုတစ်ပါးနေ ဝါးညိုကျောင်းကလေးသည် မန်ကျည်းပင်ကြီးအနီး၌ဆောက်လုပ်ထားသည် ဖြစ်၍ ထိုကျောင်းကလေးကို ‘မန်ကျည်းပင်ကျောင်း’–ဟု ခေါ်တွင်ခဲ့ကြ၏။ နောင် လယ်တီ

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၂၉)။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင် ကျော်များ။ (စာမျက်နှာ–၈၁)။

*၂ မြွှာစရိယဦးဌေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၂၉၉)။

*၃ ၁၃၂၁–ခုနှစ်၊ နတ်တော်လဆန်း ၁၃–ရက် (၁၂–၁၂–၁၉၅၉) လယ်တီဆရာတော်ဘုရားကြီး၏ (၅၁)ကြိမ်မြောက်မွေးနေ့ ပူဇော်ပွဲလက်ကမ်းစာလွှာပါ လယ်တီတောကြီးအတွင်း၌ လယ်တီဆရာတော်ကြီးကို ဒကာများရှာဖွေကာ ကျောင်း သင်္ခမ်းဆောက်ပေးကြပုံကိုဖွဲ့ဆိုထားသော ရွှေညာမောင်ဦးချင်းစိန်(မောင်ကြည်ရှင်)၏ မဟာလယ်တီတိုက်နိဒါန်းကဗျာ မဟာလေးချိုးကြီးကိုအခြေခံ၍ ဖော်ပြထားခြင်းဖြစ်ပါသည်။

တောရကျောင်းတိုက်ကြီးတည်ထောင်ကြသည့်အခါ ဤမန်ကျည်းပင်ကျောင်းကလေးသည် လယ်တီတောရတိုက်ကြီးအတွင်း ရှေးဦးဆုံးတည်ခဲ့သောကျောင်းကလေးဖြစ်ပါ၍ 'လယ်တီတိုက်အစ မန်ကျည်းပင်ကျောင်းကလေးက'ဟူ၍လည်း အမှတ်အသားပြုခဲ့ကြသည်။

ထိုမန်ကျည်းပင်ကျောင်းကလေးကိုပြုလုပ်လှူဒါန်းသောနေ့သည် ၁၂၄၈–ခုနှစ်၊ တပို့တွဲလဆန်း ၉–ရက်(အေဒီ–၁၆၊ ဖေဖော်ဝါရီလ၊ ၁၈၈၇)ခုနှစ်ဖြစ်သည်။ ထိုနေ့ကိုပင် လယ်တီကျောင်းတိုက်ကြီးတည်သောနေ့–ဟူ၍လည်း အစဉ်အဆက်အမှတ်အသားပြုခဲ့ကြသည်။*၁

ဘုန်းတော်ကြီးအရှင်ဉာဏ၏ ရှေးဘုန်းရှေးကံကြောင့် လယ်တီတောကြီးအတွင်း၌ လူတစ်ကိုယ်ဆန့်ရုံ, သက်န်းတစ်မိုးစာ ကျောင်းသခ်မ်းကလေးဖြစ်ပေါ်လာချေပြီ။ ထိုသခ်မ်းကျောင်းကလေးမျိုးကို ကျမ်းဂန်စာပေတို့၌ ပဏ္ဏသာလာ=သစ်ရွက်မိုးကျောင်း၊ အဿမ=ကျောင်းသခ်မ်း ပြဆိုထားကြသည်။ ဤနေရာ၌ အဿမ–ဟူသည် သာမန်ကျောင်းသခ်မ်းမျိုးမဟုတ်ဘဲ၊ အဘိဓာန်ဋီကာဆရာက 'ရာဂါဒယော သမေန္တိ ဧတ္ထ အဿမော' (=ရာဂစသည်တို့ကို ငြိမ်းအေးစေတတ်သောနေရာ)ဟု ဖွင့်ဆိုတော်မူခဲ့ပါသည်။*၂

**တောနေရဟန်းဘဝ**

အရှင်ဉာဏမထေရ်မြတ်သည် သပိတ်တစ်လုံး သက်န်းသုံးထည်တို့ဖြင့် ရှေးရှေးသောမထေရ်ကျော်တို့ တောထွက်တော်မူသည့်အတိုင်း လယ်တီတောကြီးအတွင်းတစ်စုံတစ်ရာစိုးရွံ့

---

*၁ လယ်တီတိုက်တည်သောရက်ကိုပြကြရာတွင် အမျိုးမျိုးမိုးကွဲပြားနေ၏။ လယ်တီပဏ္ဍိတ၏ ပရမတ္ထသံခိပ်သရုပ်ခွဲပုံ အမေးအဖြေ။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၇၅–ခုနှစ်။ (စာမျက်နှာ–၃၄၆)၌ 'သလ္လာဝတီမြစ်၏ အရှေ့ဘက်ကမ်းထိပ်ဝယ် တင့်တယ်စွာတည်ရှိသော မုံရွာမြို့ကြီး၏ အရှေ့မြောက်မျက်နှာတွင် ဆရာတော်ဘုရားကြီးပင် ၁၂၄၈–ခုနှစ်၊ တပို့တွဲလဆန်း ၈–ရက် (၃၁–၁–၁၈၈၇)အစပြု၍ လက်ဦးတည်ထောင်တော်မူသော မဟာလယ်တီတောရကျောင်းတိုက်ကြီး' ဟုပြ၏။ ၁၃၂၁–ခုနှစ်၊ (၅၁)ကြိမ်မြောက် လယ်တီဆရာတော်ဘုရား မွေးနေ့ပွဲတော်လက်ကမ်းစာစောင်။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၈၉)။ ရွှေမုံတင်၏ လယ်တီနေမင်းကျမ်း။ (စာမျက်နှာ–၆၆)။ ဋ္ဌေးလွင်(ဆားလင်းကြီး)၏ နှစ် ၁၀၀–ပြည့်မဟာလယ်တီ(ဆောင်းပါး)။ ကြေးမုံသတင်းစာ။ (၂၈–၂–၁၉၈၇)နေ့ထုတ်။ (စာမျက်နှာ–၅)။ ဆရာစိုး၏ လယ်တီထေရုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ–၉)တို့တွင် '၁၂၄၈–ခုနှစ်၊ တပို့တွဲလဆန်း ၉–ရက်' (၁–၂–၁၈၈၇)ဟု ဖော်ပြထားကြ၏။ ထိုတပို့တွဲလဆန်း ၈–ရက် (၃၁၊ ဇန်နဝါရီလ) နှင့် ၉–ရက် (၁၊ ဖေဖော်ဝါရီလ) နှစ်ရက်တွင် တပို့တွဲလဆန်း ၈–ရက်နေ့သည် လယ်တီဆရာတော်ကြီး လယ်တီတောရအတွင်းသို့ရောက်ရှိသောနေ့ဖြစ်ပြီး၊ တပို့တွဲလဆန်း ၉–ရက်နေ့မှာ မန်ကျည်းပင်ကျောင်းကလေး ဆောက်သောနေ့ဖြစ်ပါလိမ့်မည်။ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိ။ (စာမျက်နှာ–၂၉) ကို အခြေခံ၍ မဟာလယ်တီတိုက်ကြီးအကြောင်း သိမှတ်ဖွယ်ရာအကျဉ်းချုပ်။ ၁၉၈၆–ခုနှစ်။ (စာမျက်နှာ–၃)။ ဓမ္မာစရိယဦးဋ္ဌေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ။ (စာမျက်နှာ–၂၉၅)။ ဒေါ်စန်းမြမြ၏ လယ်တီရက်စဉ်သမိုင်း။ ဗမာ့သမိုင်းဟင်းလေး။ (စာမျက်နှာ–၄၄၈)။ ဒေါ်ညိုညိုစိုး၏ လယ်တီဆရာတော်ကြီးဘဝနှင့်စာပေ။ လက်နှိပ်စက်မူ။ (စာမျက်နှာ–၉)။ လယ်တီအရှင်ကေလာသ၏ လယ်တီရေတွင်းကြီး(ဆောင်းပါး)။ မြတ်လေးမဂ္ဂဇင်း။ ၁၉၈၇–ခုနှစ်၊ ဇန်နဝါရီလ။ (စာမျက်နှာ–၆၈)။ K.M. Thein' The Ledī Inscriptions Repository (Pamphlet); Htay Htay Lwin' History of The Mahā Ledī Sāsanā. Page-1. စသည်တို့တွင် '၁၂၄၈–ခုနှစ်၊ တပို့တွဲလပြည့်ကျော် ၈–ရက် (၁၅–၂–၁၈၈၇)'ဟုပြကြ၏။

*၂ မောင်းထောင်ဆရာတော်ဦးပညာသာမိ၏ အဘိဓာန်ဋီကာနိဿယ၊ ပထမအုပ်။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၇၄–ခုနှစ်။ (စာမျက်နှာ–၃၂၆)။

ကြောင့်ကြရမှုမရှိဘဲ ယထာလာဘ–စသော သန္တောသသုံးပါးလေးလီ သန္တုဋ္ဌိတစ်ဆယ့်နှစ်ပါး တို့နှင့်ပြည့်ညီစုံစွာ သီတင်းသုံးနေတော်မူရသောကြောင့် နှစ်ရှည်လကြာကာလများစွာကပင် မိမိကြံစည်ထားခဲ့သော တောရနေလိုသည့်နေက္ခမ္မဆန္ဒသည် ယခုအခါ၌ အောင်မြင်ထမြောက်ခဲ့လေပြီဟု ဝမ်းသာရွှင်လန်း၍မဆုံး ဖြစ်တော်မူရပါသည်။

စင်စစ် ဘုန်းတော်ကြီးအရှင်ဉာဏသည် သိက္ခာဝါ–၂၀ ပြည့်ချိန်ကပင် အရညကင်ဓုတင် ပဋိပတ်ကို မပြတ်စိတ်တမ်းဖြည့်စွမ်းတော်မူလိုသော အာသာဆန္ဒရှိတော်မူခဲ့ပါသည်။ ရဟန်းတို့ မည်သည်ကား ဂန္ထဓုရနှင့်ဝိပဿနာဓုရ–ဟူသော ဓုရနှစ်ပါးကိုသာ ကျင့်သုံးကြိုးကုတ်ရမည် ဖြစ်သည်။ ထိုဓုရနှစ်ပါးကို အနု,အရင့်ပုဂ္ဂိုလ်အမျိုးအစား တိက္ခ,မန္ဒကိုလိုက်၍ ကျင့်သုံးပုံကျင့်သုံးနည်းတို့မှာကား အဋ္ဌကထာဆရာက ဤသို့ပြဆိုထားပြန်သည်။

> 'တိက္ခပုဂ္ဂိုလ်ဖြစ်က ရဟန်းဖြစ်စ၌ ပရိယတ်ကိုရှေးဦးသင်ယူပြီး၊ ၁၀–ဝါပြည့်သောကာလ သာဝဇ္ဇ,အနဝဇ္ဇ,ဒုဋ္ဌုလ္လ,အဒုဋ္ဌုလ္လ,ဂရုက,လဟုက–အစရှိသော အပြစ်ကြီးငယ်တို့ကိုပြသသောဆရာနှင့် ကင်း၍နေနိုင်ပြီးဖြစ်ရာ၊ နိဗ္ဗာန်ရောက်သည်တိုင်အောင် အရဟတ္တဖိုလ်အဆုံးရှိသော တစ်ခုသောကမ္မဋ္ဌာန်းကိုသိနားလည်စေရန် သင်ယူပြီး ပဋိပတ်ဓုရကိုကျင့်ဆောင်ရမည်။ မန္ဒပုဂ္ဂိုလ်ဖြစ်ပါက ရဟန်းဖြစ်စမှ ဝါ–၂၀ တိုင် ပရိယတ်ဘက်လိုက်ပြီး ဝါ–၂၀ မှစ၍ ပဋိပတ်ဘက်သို့လိုက်ပါရမည်'ဟု ညွှန်ပြထားတော်မူ၏။ (ဝိ၊ ဋ္ဌ၊ ၃။ ၅၅။)။

ထိုသို့ ရဟန်းကိစ္စနှစ်ဓုရကို သူ့အချိန်နှင့်သူပိုင်းခြားခွဲဝေကာ ကျင့်ကြံကြိုးကုတ်အားထုတ်ရန် အသိရှိသောပုဂ္ဂိုလ်မျိုးကို 'ကာလညူ' (အချိန်ကာလကိုသိသူ)ဟူ၍လည်း အဋ္ဌကထာဆရာက အဓိပ္ပာယ်ဖွင့်ဆိုတော်မူပါသည်။ ဘုန်းတော်ကြီးအရှင်ဉာဏသည် အဋ္ဌကထာဆရာအလိုကျ ဝါ–၂၀ တိုင်သည်အထိ ပရိယတ်ကိစ္စ ဂန္ထဓုရတို့ဖြင့်အချိန်ကုန်လုံးပန်းနေတော်မူခဲ့ပြီးနောက် ယခု ဝါ–၂၀ ကျော်စအခါတွင် အရညကင်ဓုတင်ကျင့်ဝတ်ဖြည့်စွမ်းတော်မူနိုင်ခဲ့လေပြီဖြစ်သည်။ ဘုန်းတော်ကြီးအရှင်ဉာဏက မိမိ၏တပည့်တို့ကိုမူကား ရဟန်းသိက္ခာဝါနှင့်မဟုတ်ဘဲ လူ့သက်တမ်းဖြင့် အသက် ၅၀၊ အသက် ၅၅–နှစ်ထက်နောက်မကျစေဘဲ တောနေကြရန် မိန့်ဆိုဆုံးမတော်မူလေ့ရှိပါသည်။*၁

ဘုန်းတော်ကြီးအရှင်ဉာဏသည် ရဟန်းပြုစအခါမှစ၍ ပရိယတ္တိဓမ္မကိုအားထုတ်ရာတွင် ပရိယတ်ဓမ္မကိုအဓိက ပဋိပတ်ကိုမလပ်ရုံမျှသာအားထုတ်တော်မူခဲ့၏။ သက်တော်–၄၀ ကျော် ဝါတော်–၂၀ အတွင်းသို့ရောက်၍ ပဋိပတ်ဓမ္မကိုအဓိကထားကျင့်ကြံကြိုးကုတ်အားထုတ်သော် ပရိယတ်ကိုမလစ်လပ်ရုံသာကျင့်ကြံကြိုးကုတ်အားထုတ်တော်မူတော့သည်။ ဤနေရာ၌ ပရိယတ်ကိုလိုက်စားစဉ်က ပဋိပတ်ဓမ္မကိုမလစ်လပ်ဟူရာတွင် ရှေးဆရာတော်ကြီးတို့၏အာဘော်အရ

---

*၁ လယ်တီဆရာတော်ကြီး၏ ဖေယျာပုရပုစ္ဆာအဖြေ။ နိုင်ငံတွင်းပုစ္ဆာအဖြေပေါင်းချုပ်၊ ဒုတိယတွဲ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၇–ခုနှစ်။ (စာမျက်နှာ–၁၅၂)။

ရဟန်းတို့၏ပဋိပတ်ဓမ္မ–ဟူသည်ကား စတုပါရိသုဒ္ဓိသီလ၊ စုဒ္ဒသခန္ဓကဝတ်၊ ဒွေအသီတိမဟာဝတ်၊ ဓုတင်တေရသ၊ သန္တုဋ္ဌိ–သလ္လေခ၊ သမထလေးဆယ်၊ ဝိပဿနာသုံးပါး ဤအကျင့်တရားတို့ကို ကျင့်သုံးဆောက်တည်ခြင်းကို ဆိုလိုသည်။*၁

ဘုန်းတော်ကြီးအရှင်ဉာဏသည် အရည်ကဓုတင်ပုဂ္ဂိုလ်ပီပီ ဝါးညိုကျောင်းကလေးမှာ နေ့အခါ ခေတ္တနားနေရုံမျှသာသီတင်းသုံးပြီး အစဉ်သဖြင့် သစ်တစ်ပင်ဝါးတစ်ပင်အောက်မှာသာ မွေ့လျော်နေတော်မူခဲ့သည်။ ဆွမ်းခံချိန်ရောက်သော် 'တောနေသူမြတ်၊ ပိဏ္ဍပါတ်၊ ဝတ်ကို မဖျက်ချင်' ဟူသောဆောင်ပုဒ်အတိုင်း*၂ တစ်ဆယ့်လေးပါးသောစုဒ္ဒသဘတ်တို့ကိုပယ်၍ အိမ်စဉ်မပြတ် ဆွမ်းခံဝင်သော ပိဏ္ဍပါတ်ဓုတင်အကျင့်မြတ်ကိုဆောက်တည်ခြင်းအလို့ငှာ လယ်တီတောနှင့် တစ်ဆက်တည်းရှိနေသော ဆူးလေကုန်းက ယာတဲကိုင်းတဲများသို့ အိမ်စဉ်အတိုင်း ဆွမ်းခံကြွတော်မူပါသည်။ ထိုအရပ်ဒေသရှိ ဆွမ်းဒကာဆွမ်းအမတို့မှာ ဆင်းရဲမွဲတေလှသော ကိုင်းသမားယာသမားတို့ဖြစ်ကြ၍ သူတို့၏သဒ္ဓါတရားအလျောက်လောင်းလှူကြသော ဖြူနီကြောင်ကြား ပြောင်းဆန်ဆွမ်းအရောရောနှင့် သကာရည်၊ ငရုပ်သီးထက်ပိုင်းကျိုးစသောဆွမ်းဟင်းတို့ကို မျှတရုံခံယူပြီးလျှင် တစ်နေ့လျှင်ဆွမ်းတစ်ထပ်မျှဖြင့် အာဟာရကိစ္စကိုပြီးမြင်းစေတော်မူခဲ့ပါသည်။ ဘုန်းတော်ကြီး အလွန်ဆင်းရဲခံနေကြောင်းကိုကြားသိကြသော လေ့ကူးမုံရွာတို့မှ ဒကာဒကာမတို့က 'မိမိတို့ထံဆွမ်းခံကြွတော်မူပါ' ဟု သွားရောက်၍ဆွမ်းဖိတ်ကြသောအခါ ဘုန်းတော်ကြီးက 'ငါက ကံနည်းတဲ့သူတွေဆီသွားပြီး ချီးမြှောက်တာပါကွယ်' ဟု မိန့်ဆိုတော်မူခဲ့သည်။*၃ ရံခါ၌ ဘုန်းတော်ကြီးသည် ရှောက်ခါးရွာဘက်သို့လည်းဆွမ်းခံကြွတော်မူပါသည်။

လယ်တီတောကြီးအတွင်း၌ ဘုန်းတော်ကြီးအရှင်ဉာဏသည် မေတ္တာဘာဝနာကမ္မဋ္ဌာန်းကို ကြပ်ကြပ်စီးဖြန်းတော်မူသဖြင့် မည်သည့်ဘေး မည်သည့်အန္တရာယ်ကိုမျှ မတွေ့မမြင်ရဘဲ ချမ်းသာစွာ တရားဘာဝနာအလုပ်ကိုအားထုတ်ခွင့်ရခဲ့လေသည်။ စင်စစ် လယ်တီတောကြီးအတွင်းရှိအချို့အမနုဿတောသတ္တဝါတို့သည် ဘုန်းတော်ကြီး၏မေတ္တာကြောင့် စိတ်နေစိတ်ထားသိမ်မွေ့နူးညံ့ကာ ဘုန်းတော်ကြီးကိုဘေးမပြုကြဘဲ ကင်းကင်းနေကြ၏။ အချို့မှာမူ ဘုန်းတော်ကြီးအနီးအပါးသို့ချဉ်းကပ်ကာ ကြည်ညိုလေးစားဟန်အမူကိုပြကြ၏။ အချို့ကမူ မထေ့မဲ့မြင်ပြုကြသေး၏။ သို့ပါသော် နောင်အခါ၌ ဘုန်းတော်ကြီး၏မေတ္တာကွန်ရက်သည် လယ်တီတောကြီး၌ ပိုင်ပိုင်နင်းနင်းခြုံအုပ်မိသောအခါ၌ ထိုတောအတွင်းရှိ သားရဲတိရစ္ဆာန်မှအစ အမနုဿခေါ် မကောင်းဆိုးဝါးတို့သည်ပင် ဘုန်းတော်ကြီးအနီးကပ်၍ ရိုသေစွာတရားနာယူခြင်း၊ စောင့်ရှောက်ခြင်းပြုခဲ့ကြလေသည်။*၄

---

*၁ မစိုးရိမ်ဦးသောမ၏ လေ့သင်းမင်းကျောင်းဆရာတော်ကြီး၏ ထေရုပ္ပတ္တိ (ခေါ်) ထေရဝံသာစာရက္ကမဒီပိကာ။ ၁၂၈၈–ခုနှစ်။ (စာမျက်နှာ–၆၈)။

*၂ ဦးသြ၏ ကဝိလက္ခဏာသတ်ပုံ (အပိုဒ်–၉၇၀)။ ၁၉၆၂–ခုနှစ်။ (စာမျက် နှာ–၄၀)။

*၃ ဤအချက်ကို အဂ္ဂမလယ်တီဆရာတော်ကြီးအရှင်ဣန္ဒက (၂၃–၄–၁၉၇၆)နေ့က မိန့်တော်မူပါသည်။

*၄ Ven. Ashin Ñyānissara' A Short Biography of The Ledi Sayadaw. 1996. Page-22.

ဘုန်းတော်ကြီးကလည်း ထိုအမနုဿတောသတ္တဝါတို့အား အောက်ပါအတိုင်းအမိန့်တော် ပြန်တမ်းထုတ်၍ အုပ်ချုပ်တော်မူခဲ့သည်။

'သင်တို့သည် ဤနယ်မြေအရပ်မှာပင် နေမြဲတိုင်းနေကြ။ ငါ၏တပည့်အစဉ် အဆက်တို့ကိုလည်း အနှောင့်အယှက်မပြုရ၊ အန္တရာယ်လည်းမပြုစေရ၊ ငါတတ်နိုင် သမျှ သင်တို့အားကျွေးမွေးမည်။ ငါသည် မြို့ရွာအကျိုး၊ သာသနာတော်ကြီး၏ အကျိုးကို ကြီးစွာဖြစ်ထွန်းဆောင်ရွက်ရန် သင်တို့၏အမိအဘ ဆွေအရာမျိုးအရာ၌ တည်နေမည်။ သင်တို့ကလည်း ငါ့အပေါ် အမိအဘ,ဆွေအရာမျိုးအရာထား၍ တစ်စုံတစ်ရာသောနှောင့်ယှက်ခြင်းကိုမပြုဘဲ ချမ်းသာစွာနေထိုင်ကြရမည်' *၁ ဟုဖြစ်၏။

ဘုန်းတော်ကြီးအရှင်ဉာဏ အားထုတ်အပ်သောတရား

လယ်တီတောကြီးအတွင်း၌ ဘုန်းတော်ကြီးအရှင်ဉာဏ၏ လူသူမနော ကေစာရီတစ်ပါး တည်းသီတင်းသုံးနေသော တောနေရဟန်းဘဝကိုတင်ပြပြီးသည့်နောက်၊ ထိုအခါက အရှင်မြတ်၏ ကျင့်ကြံကြိုးကုတ် အားထုတ်အလုပ်လုပ်ပုံတို့ကို သိမီသူများ၏ပြောပြချက်အရ ဆက်လက် တင်ပြလိုပေသည်။

ဘုန်းတော်ကြီးအရှင်ဉာဏသည် လယ်တီတောကြီးအတွင်း တစ်ပါးတည်း သီတင်းသုံးနေတော်မူစဉ် သင်္ကန်း,ဆွမ်း,ကျောင်း,ဆေးပစ္စည်းလေးပါးတို့၌လည်း သန္တုဋ္ဌိခေါ် လူသာမန်တို့ပြုရန်ခဲယဉ်းသောခြိုးခြံမှုကြီးများကိုပြုလုပ်၍ နေတော်မူခဲ့ ပါသည်။ ထို့ပြင်– (၁) ပစ္စည်းလေးပါးနှင့်စပ်သောလာဘ်လာဘ၌အလိုနည်းခြင်း= ပစ္စယအပ္ပိစ္ဆ၊ (၂) မိမိကျင့်အပ်ကြံအပ်သောဓုတင်တရားတို့ကို သူတစ်ပါးမသိရ အောင် သိုဝှက်ဖုံးဖိခြင်း= ဓုတင်္ဂအပ္ပိစ္ဆ၊ (၃) မိမိ၏ပရိယတ်ပညာကို သူတစ်ပါးမသိရ အောင်ဖုံးဖိနိုင်ခြင်း=ပရိယတ္တိအပ္ပိစ္ဆ၊ (၄) မိမိရအပ်သောမဂ်ဖိုလ်တရားကို သူတစ်ပါး မသိရအောင်ဖုံးဖိနိုင်ခြင်း= အဓိဂမအပ္ပိစ္ဆဟူ၍ အပ္ပိစ္ဆဂုဏ်လေးမျိုးရှိရာတွင်၊ ဆရာတော် သည် ထိုအပ္ပိစ္ဆတရားလေးပါးနှင့်အညီကျင့်တော်မူသည်။ လယ်တီတောရမှာ သီတင်းသုံးနေစဉ် ပရိတ်မေတ္တာပွားများခြင်း၊ နေ့ရောညဉ့်ပါ ကမ္မဋ္ဌာန်းတရား အားထုတ်ခြင်း၊ ဆွမ်းခံဝတ်အမြဲထားခြင်းစသော ရဟန်းကျင့်ဝတ်များကိုလည်း မပျက်အောင် အားထုတ်တော်မူပါသည်။*၂

လယ်တီဘုန်းတော်ကြီးသည် တရားဘာဝနာကိုကြိုးကြိုးမင်းမင်းအားထုတ်ခဲ့သည်မှန်သော် လည်း မည်သည့်ကျင့်စဉ်လမ်းစဉ်ကိုအားထုတ်ခဲ့ကြောင်းကိုကား ထိုစဉ်အခါမှစ၍ နောက်နောင် ကာလကြာမြင့်သည့်တိုင် (ဝါ) ယနေ့တိုင်သည့်အထိပေါက်ကြားခြင်းမရှိ၊ ဤသို့ မည်သည့်ရှင်လူ

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထ ဝင်ကျော်များ။ (စာမျက်နှာ–၈၂)။

*၂ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထ ဝင်ကျော်များသမိုင်း။ (စာမျက်နှာ–၈၆)။ ဤအကြောင်းတို့ကို လယ်တီဆရာတော်ဘုရား ကြီး၏ တပည့်ရင်း စစ်ကိုင်းတောင်ရိုး ဇမ္ဗုပတိချောင်ဆရာတော်ဦးပဒုမက မေးလျှောက်ပြီးမှ ရေးသားခြင်းဖြစ်ကြောင်း လယ်တီဦးလှပိုင်က စာရေးသူကိုပြောပြဖူးလေသည်။

တစ်ပါးတစ်လေမှမသိရှိကြလေအောင် သိုသိပ်စွာကျင့်ကြံအားထုတ်နိုင်သော အရှင်မြတ်၏အပ္ပိစ္ဆဂုဏ်ကား အံ့ဖွယ်ပင်ဖြစ်တော့သည်။ စင်စစ် လယ်တီတောရဘုန်းတော်ကြီးသည် မိမိ၏သီလ, သဒ္ဓါနှင့်တကွ အားထုတ်အပ်သောတရားကိုမဆိုထားဘိ တောရအတွင်းနေထိုင်စဉ်အတွင်း မိမိမည်သူမည်ဝါဖြစ်ကြောင်းကိုပင် အသိမခံဘဲနေထိုင်တော်မူခဲ့သည်။

တစ်ကြိမ်သောအခါက မုံရွာမြို့ဆုတောင်းပြည့်ဘုရားပွဲတွင် တရားပွဲကျင်းပရာ၊ ထိုတရားပွဲ၌ လယ်တီတောရဘုန်းတော်ကြီးလည်း တရားဟောခဲ့ရသည်။ သို့ဟောပြီးသည်နှင့် 'လယ်တီတောရဘုန်းကြီးတရားဟောကောင်းလှသည်'ဟု သတင်းကျော်လေသည်။ လယ်တီတောရဘုန်းကြီး တရားဟောကောင်းသည်ဟုသတင်းကျော်သောကြောင့် နောက်တစ်ကြိမ်တရားပွဲကျင်းပသောအခါ မုံရွာမြို့ပေါ်မှ ဆွမ်းဒကာမကြီးဒေါ်ငွေဥ တရားနာယူရန်ရောက်လာခဲ့သည်။ ထိုဆွမ်းအမကြီးဒေါ်ငွေဥသည် တရားနာနေရင်း ဓမ္မကထိကဖြစ်သော လယ်တီတောရဘုန်းတော်ကြီး၏မျက်နှာတော်ကို မကြာမကြာမော်၍ဖူးနေ၏။ ဤမျက်နှာတော်ကို ရင်းရင်းနှီးနှီး ဖူး,ဖူးပါသည်ဟုလည်း စိတ်ကထင်နေ၏။ တရားပွဲပြီးသောအခါမှ တရားဟောနေသော ထိုဓမ္မကထိကပုဂ္ဂိုလ်သည် မိမိ၏နေအိမ်ကို နံနက်တိုင်းဆွမ်းခံကြွခဲ့သော ဘုန်းကြီးဦးဉာဏဖြစ်နေမှန်းသိရသဖြင့် အရပ်ထဲပြန်ရောက်သော် 'ဟဲ့–လယ်တီဘုန်းကြီး...လယ်တီဘုန်းကြီးနဲ့ နာမည်တော့ကြီးလိုက်တာဟရို့တို့ရဲ့၊ ယခုတွေ့ရတော့ ငါတို့အိမ် နေ့တိုင်းဆွမ်းခံကြွလာတဲ့ ဦးဉာဏကြီးဟဲ့'ဟု ပြောသည်ဟူ၏။*၁

ဘုန်းတော်ကြီးအရှင်ဉာဏသည် ဤသို့ ဆွမ်းဒကာဆွမ်းအမကိုသော်မှ မိမိ၏အရည်အကင်းစုတင်ဆောင်အဖြစ်ကိုဖုံးကွယ်ထားနိုင်ပုံမှာ အပ္ပိစ္ဆတာပုဂ္ဂိုလ်ပီသကြောင်း သက်သေတစ်ရပ်ပင်ဖြစ်သည်။ လယ်တီတောရကျောင်းဘုန်းကြီးသည်ကား ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ၌လာသော သီဟိုဠ်ကျွန်းကောရဏ္ဍကကျောင်းမှ ကုလပလိဗောဓကောင်းသည့် ပဓ္ဓင်းငယ်နှယ် မိဘအိမ်၌ တစ်ဝါတွင်းလုံးဆွမ်းဘုဉ်းပေးခဲ့လင့်ကစား 'ဦးပဓ္ဓင်းသည် ဒကာမကြီး၏သား'ဟုဖွင့်ဟမပြောဘဲ ဆိတ်ဆိတ်နေနိုင်ခဲ့ပုံနှင့်လည်း အလားတူနေပေတော့သည်။ (ဝိသုဒ္ဓိ၊ ဌ၊ ၁။ ၈၉။)။

သုသာန်ဓုတင်ဆောက်တည်ခြင်းနှင့်စပ်လျဉ်း၍ လယ်တီဘုန်းတော်ကြီးက မိမိ၏ကိုယ်တွေ့အချက်များကို အောက်ပါအတိုင်းရေးထားတော်မူပါသဖြင့် ထိုစဉ်အခါက လယ်တီဘုန်းတော်ကြီး၏သုသာန်ဓုတင်ဆောက်တည်ခဲ့ပုံတို့ကို မှန်းဆကြည့်ညိုနိုင်လေသည်။

> အသုဘဆယ်ပါးတို့တွင် အကောင်အထည်မပျက်သေးသော အသုဘကောင်ကိုကြည့်ရှုရာ၌ နိမိတ်ထင်ခါနီးအခါ၌ လူသေကောင်ကြီးထလာဘိသကဲ့သို့၊ ထ,၍ မိမိထံကိုလှမ်းမိုး၍လိုက်လာဘိသကဲ့သို့ ကြောက်အားကြီးသဖြင့် စိတ်ထဲမှာထင်တတ်၏။ ထိုအခါ ကြောက်လန့်၍ နှလုံးသွေးများပျက်မတတ်ရှူးသွပ်တတ်သည်။ ကြပ်ကြပ်သတိပြုအပ်၏။ အဝိဇ္ဇာဏကဖြစ်သော သစ်ပင်သစ်ငုတ်သစ်တုံးသည်

*၁ အရှင်မဟာထေရတိဿ၏ ပဋိသန္ဓာရအနုပါဒိသေသနိဗ္ဗာနကျမ်း။ သုဓမ္မဝတီစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၃၄–ခုနှစ်။ (စာမျက်နှာ–၈၂)။

ထ,မလိုက်လာနိုင်ဘိသကဲ့သို့ 'အသက်ဝိညာဏ်ကင်းပြီးသော ဤလူသေကောင်သည် အဘယ်မှာထ,လိုက်နိုင်လိမ့်မည်နည်း၊ ဤကဲ့သို့ထင်မှုသည် မောင်မင်းစိတ်ရင့်သန်၍ နိမိတ်ရခါနီးမို့ ထင်ခြင်းသာတည်း၊ မကြောက်လင့်'ဟု မိမိကိုယ်ကိုမိမိဆုံးမ၍ ကြောက်ခြင်းကင်းစေ၍ နှစ်သက်ဝမ်းမြောက်စွာကြည့်ရှုရာ၏။ အကောင်အထည်အရေပါး မစုတ်သေးမပျက်သေးလျှင် ဘုတ်ဝင်၍ဖြစ်နိုင်သေး၏။ စုတ်ပျက်ချို့ယွင်းနေလျှင် ဘုတ်ဝင်၍မဖြစ်။ အကယ်၍ဘုတ်ဝင်၍ထလာခဲ့လျှင် တောင်ဝှေးဖြင့်တွန်းထိုး၍လှဲအပ်၏။ ပရိတ်မန္တန်ဖြင့်သော်လည်းလှဲအပ်၏။ တစ်ယောက်တည်းအသုဘရှုသွားသောသူသည် တောင်ဝှေး,ပရိတ်-စသည် ကောင်းမွန်စွာဆောင်အပ်၏။ သတိကောင်းကောင်းထားအပ်၏-ဟူ၍ဖြစ်သည်။*၁

ဘုန်းတော်ကြီးသည် လယ်တီတောကြီးအစပ်၌သုသာန်တစ်ခုရှိခဲ့ဖူးလေရာ ညဥ့်အခါထိုသုသာန်သို့ကြွ၍ သုသာန်ဝတင်ဆောက်တည်လျက် လတ်လတ်လောလောပျက်စီးခဲ့သောအသုဘရုပ်ကောင်တို့ကို ကမ္မဋ္ဌာန်းရှုပွားလေ့ရှိကြောင်းသိရ၏။ ဤအကြောင်းတို့ကိုလည်းယနေ့ထက်တိုင် တိတိကျကျပြောနိုင်သောပုဂ္ဂိုလ်မပေါ်ပေါက်ဘဲရှိလေရာ၊ ဤမျှရှည်ကြာကာလတိုင်အောင် ဘုန်းတော်ကြီးသည် မြှုပ်ကွယ်၍ထားတော်မူခဲ့၏။

ဘုန်းတော်ကြီးအရှင်ဉာဏ ဆွမ်းခံကြွတော်မူသော ဂေါစရဂါမ်ရွာများတွင် မုံရွာမြို့စွန်ကိုယ်လက်မကောင်းသောရောဂါရှင်များနေရာအရပ်သည်လည်း တစ်ခုအပါအဝင်ဖြစ်သည်။ ထိုသွေးမစွန်းခေါ် ကိုယ်လက်ရောဂါသည်များလောင်းလှူသောဆွမ်းစသည်ကိုခံယူပြီး မြိန်ယှက်စွာဘုဉ်းပေးရုံမျှမက ထိုပုဂ္ဂိုလ်တို့အားလည်းစောင့်ရှောက်ချီးမြှောက်သောအားဖြင့် ဆွမ်းအနုမောဒနာတရား အစဉ်ချီးမြှင့်တော်မူလေ့ရှိသည်။*၂ ဘုန်းတော်ကြီးသည် ထိုရောဂါရှင်တို့မျှမက ပုပ်သိုးညှီဟောင်သောအာရုံ၊ သွေးပြည်မစင် စသောအညစ်အကြေးအာရုံတို့၌ပင် စက်ဆုပ်ရွံရှာမှုမရှိဘဲ သမာဓိခိုင်ကြည်တော်မူကြောင်းထင်ရှားလေသည်။

ပြောစမှတ်တစ်ရပ်ရှိပြန်သည်မှာ ဘုန်းတော်ကြီးအရှင်ဉာဏသည် လယ်တီတောအုပ်ကြီးအတွင်း ကြံ့ချိုပမာတစ်ပါးတည်းနေတော်မူစဉ် မှောင်စပျိုးနေချိန်လောက်တွင် လယ်တီတောကြီးအတွင်းသို့ အဖော်မပါဘဲ ဒကာမတစ်ဦးရောက်ရှိလာပြီး ဘုန်းတော်ကြီးသီတင်းသုံးရာအနီး၌ဝတ်ပြုနေလေသည်။ ဘုန်းတော်ကြီးက 'ဟဲ့-ဒကာမ၊ ဒါနင့်နေရာလား'ဟု ခပ်ငေါက်ငေါက်ဟိန်းတော်မူပြီး ပကတိတည်ကြည်သောသမာဓိဖြင့် မိမိအားထုတ်မြဲတရားကို အားထုတ်နေတော်

*၁ လယ်တီဆရာတော်ကြီး၏ကမ္မဋ္ဌာန်းကျမ်းကြီး။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၅-ခုနှစ်။ (စာမျက်နှာ-၆၆)

*၂ ရတနာပုံရပ် ဆရာကြီးဦးစိုးဂေါင်၏ပြောပြချက်ဖြစ်သည်။ လယ်တီဆရာတော်ကြီးသည် မန္တလေးမြို့စံကျောင်းတိုက်၌ အနေထေရ်ဘဝနေစဉ်က စစ်ကိုင်းတောင်ရိုး မဇ္ဈိမကာရာမချောင်ရှိ ထွန့်ခေါင်ဆရာတော်ဘုရားကြီးထံသွားရောက်၍ ဦးနိုက်လေ့ရှိ၏။ ထွန့်ခေါင်ဆရာတော်ကြီးသည် ကပ္ပိယကိုသာဟန်အမည်ရှိ နူနာရောဂါရှင်နှင့် ကိုယ်မကောင်းသူသီလရှင်ကပ္ပိယမကုလားမတို့ ချက်ပြုတ်ပြုပြင်ပေးသော ဖျော်ရည်,ဆွမ်းစသည် ဘုဉ်းပေးတော်မူသည်ကို မြင်တွေ့တော်မူခဲ့မည်ဖြစ်သည်။ အရှင်ပဏ္ဍိတ၏ ထွန့်ခေါင်ဆရာတော်ဘုရားကြီး။ ၁၃၃၃-ခုနှစ်။ (စာမျက်နှာ-၁၈)။

မူခဲ့သည်။ ခဏကြာ၍ကြည့်ရှုသော် ထိုဒကာမသည် ထိုင်နေသောနေရာ၌မရှိတော့ဘဲ ပျောက်ကွယ်သွားသည်။ ဘုန်းတော်ကြီး၏သမာဓိကို တောစောင့်နတ်ကစမ်းလေသည်ဟူ၍လည်း ပြောကြ၏။ သမာဓိနိုင်ကြည်လှသည်ဖြစ်၍ ထိုထိုသောဝိသဘာဂအာရုံတို့ ဘုန်းတော်ကြီးအား တုန်လှုပ်ရန်မစွမ်းနိုင်ကြပေ။

ထိုစဉ်အခါက လယ်တီတောအတွင်းမြွေပေါသည်မှာ ရေးဖွယ်မလို။ ကျားလည်းရှိသည်။ အဆိပ်ပြင်းသောကင်း–စသည့်သတ္တဝါတို့လည်း အများအပြားရှိသည်။ ထိုတိရစ္ဆာန်တို့သည် ဘုန်းတော်ကြီးအား မည်သို့မျှအန္တရာယ်မပြုကြကုန်။ ဘုန်းတော်ကြီးအား အလေးဂရုပြုကြသည်သာ။ ညဥ့်သန်းခေါင်ယံ၌ ဘုန်းတော်ကြီးတရားရှုမှတ်နေတော်မူသည့်အခါ တိရစ္ဆာန်တို့နှင့် အမနုဿခေါ် အရိုင်းတို့သည်လည်း ဘုန်းတော်ကြီး၏ပါရမီဖြည့်ဖက်သကဲ့သို့ အနီး၌ဝန်း၍စောင့်ရှောက်နေကြသည်–ဟု ပြောစမှတ်ရှိလေသည်။*၁

ဘုန်းတော်ကြီးအရှင်ဉာဏသည် ဓမ္မသေနာပတိအရှင်သာရိပုတ္တရာမထေရ်၏ညီထွေးရှားတောအရပ်နေ အရှင်ခဒိရဝနိယရေဝတမထေရ်နည်းတူ အရှည့်ကင်ဓုတင်တော်ဂုဏ်တွဲ့ထူးခံယူလောက်အောင် ဆူးချုံထူထပ်လှသောလယ်တီတောကြီးအတွင်း တစ်ကိုယ်တည်းသီတင်းသုံးနေတော်မူစဉ်က ကျင့်ကြံအားထုတ်ခဲ့ရပုံတို့ကို နောင်သောအခါ မုံရွာမြို့မှခြောက်မိုင်အကွာရှိသော မြေနဲတောရကြီးတွင် ကေစာရီအကျင့်ဖြင့် တောရအလုပ်အားထုတ်မည့် မိုးညှင်းဘုန်းတော်ကြီး လောင်းလျာအရှင်သုမနအား မိန့်ကြားတော်မူရုံသာမက ထိုစဉ်က မိမိလက်ကိုင်ထားအားထုတ်သော တရားလုပ်ငန်းအချို့ကိုလည်း အောက်ပါအတိုင်းမိန့်မြွက်နည်းပေးတော်မူပါသည်။

> 'မောင်သုမနရဲ့–ဗုဒ္ဓါနုဿတိကိုရှေးဦးစွာပွားပြီးမှ မေတ္တာကိုပွားပါ၊ ၎င်းနောက် အသုဘကိုလဲရှု၊ မရဏာနုဿတိဘာဝနာကိုလည်း ယခုချက်ခြင်းသေနိုင်ပုံကို မြင်အောင်ရှုကွယ့်၊ ပြီးမှ ဝိပဿနာကို ခန္ဓာရုပ်နာမ်အဟုတ်အမှန်မြင်အောင်ရှုရမည်' *၂ ဟူ၍ဖြစ်သည်။

အထက်ပါအဆုံးအမသည် ရဟန်းတို့သာမက လူပုဂ္ဂိုလ်တို့ပင်ကျင့်သုံးနိုင်သော 'ဗုဒ္ဓါနုဿတိမေတ္တာ' အစရှိသော စတုရာရက္ခတရားလေးပါးပင်ဖြစ်တော့သည်။*၃

---

*၁ အချို့က ဤအကြောင်းကိုအကုန်အစင်မသိသည့်အတွက် လယ်တီဆရာတော်ကြီးသရဲမွေးသည်ဟု အမနာပပြောကြကြောင်း–စသည့်အချက်တို့ကို ရွှေကျင်သာသနာပိုင်ကျေးမြင်ဆရာတော်ကြီး(၂၀–၄–၁၉၇၆)နေ့က မိန့်ကြားတော်မူခြင်းဖြစ်ပါသည်။

*၂ နေရင်းဦးကောဝိဒ၏ မိုးညှင်းမဟာထေရာပဒါန်။ ဒီမိုကရေစီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၁–ခုနှစ်။ (စာမျက်နှာ–၁၅၂)။

*၃ ဝိ၊ ဌ၊ ၄။ ၇၃။ ဝိ၊ သင်္ဂဟ၊ ၂၂၂။ ခုဒ္ဒသိက္ခာ၊ ဋီ၊ ဟောင်း။ ၄၆၁။ ခုဒ္ဒသိက္ခာ၊ ဋီ၊ သစ်။ ၄၆၁–၂။ ဗုဒ္ဓါနုဿတိ,မေတ္တာ,အသုဘ, မရဏာနုဿတိ–ဟူသော ဤစတုရာရက္ခတရားလေးပါးကို လယ်တီဆရာတော်ကြီး၏ ရှေးဦးပိုင်းကျသော တပည့်ကြီးအစဉ်အဆက်တို့ ကျင့်သုံးတော်မူခဲ့ကြကြောင်းကို ထိုပုဂ္ဂိုလ်တို့ရေးသောကျမ်းများအရသိရသည်။ (က) သေဘ္ဘုတောင်ဦးတိလောက၏နေက္ခမဝိဓာနဒီပနီ။ ၁၂၆၂–ခုနှစ်။ (ခ) လယ်တီဦးသောဘန၏ဝိပဿနာကမ္မဋ္ဌာနဒီပနီ။ ၁၂၈၅–ခုနှစ်။ (ဂ) အင်းမကြီး သိမ်တောင်တောရ လယ်တီဦးကုသလ၏ ကမ္မဋ္ဌာနနယဘာဝနာအလင်းပြကျမ်းသစ်။ ၁၂၉၀–ပြည့်နှစ်။ (ဃ) ဝမ်းတွင်း သိမ်တောင်တောရ ပဋ္ဌမကျော်လယ်တီဦးပညာသီဟ၏စတုရာရက္ခဒီပနီ။ ၁၂၉၈–ခုနှစ်–စသည်တို့၌ရှုပါ။

## လယ်တီတောရကျောင်းအဖြစ်သို့ရောက်ရှိခြင်း

သင်္ဂြိုဟ်ဦးပိုင်းကျောင်းဘုန်းတော်ကြီးအရှင်ဉာဏသည် 'ကြောင့်ကျကြီးကို၊ ကင်းစေလို၍ ကိုယ်တစ်ယောက်တည်း၊ ကြံချိုနည်းဖြင့်' တောရပ်မြိုင်ခွင်သို့ ဆည်းကပ်ခိုဝင်ခဲ့လင့်ကစား လေ့ကျူးမုံရွာရှိ တပည့်သံဃာတော်များမှာ အရှင်ဉာဏအတွက် စိတ်မအေးနိုင်ကြသောကြောင့် လယ်တီတောကြီးအတွင်းသို့ တစ်ပါးစ,တစ်ဦးစဆိုသလို ရောက်လာကြလေ၏။ အချို့သော ဒကာကြီးများကဆိုလျှင် 'အရှင်ဘုရား၊ သည်လိုတစ်ပါးတည်းနေခြင်းသည် ဆင်းရဲပင်ပန်းလှပါသည်ဘုရား၊ တပည့်သံဃာမွေးတော်မူပါဘုရား'ဟု တောင်းပန်လျှောက်ထားကြလေသည်။ တပည့်သံဃာတို့ကလည်း လယ်တီတောအတွင်းသို့ရောက်လျှင် ရွာကျောင်းသို့မပြန်သေးဘဲ တစ်ညဥ့်တန်သည်နှစ်ညဥ့်တန်သည် ဘုန်းကြီးထံပါးနေ၍ ဝတ်ကြီးဝတ်ငယ်ပြုစုနေကြလေသည်။

ဤအချိန်၌ ဘုန်းတော်ကြီးအရှင်ဉာဏအဖို့မှာလည်း တပည့်မွေးခြင်းသည် ရန်သူမွေးခြင်း၊ အဖော်ရှာခြင်းသည် ရန်သူရှာခြင်းပင်ဖြစ်တော့သည်။ သုညာဂါရခေါ် ဆိတ်ငြိမ်ရာတောတောင်ထဲ၌ တစ်ပါးတည်းနေရ၍ အနှောင့်အယှက်ကင်းသဖြင့် အရာရာချမ်းသာလှပေ၏။ တစ်ကိုယ်တည်းနေသော ကေစာရအကျင့်လမ်းသည် ပြုစုစောင့်ရှောက်သူအသိုင်းအဝန်းရဲရွေဘော်ကင်းမဲ့သဖြင့် စည်းစိမ်မရှိဟုထင်မှတ်ဖွယ်ရှိသော်လည်း လောဘ,ဒေါသ,ရာဂကင်းငြိမ်းကြောင်း ကျင့်ရိုးလမ်းမှန်ဖြစ်၍ အပူကင်းပ အလွန်ချမ်းသာလှပေသည်။ စင်စစ် တရားဘာဝနာအလုပ်ကို တကယ်အားထုတ်နေသော ယောဂီပုဂ္ဂိုလ်တို့အဖို့မှာ ဆွမ်းခံစားသောက်ရမှု၊ စားပြီးက ဆေးကြောသုတ်သင်ရမှုစသော အာဟာရကိစ္စအဝဝတို့သည်ပင် တရားလုပ်ငန်းအတွက်အချိန်ပေးရလှပြီဟု ယူဆမိကြမြဲဖြစ်လေသည်။

ဘုန်းတော်ကြီးအရှင်ဉာဏသည် တပည့်သံဃာတို့အားငဲ့ညှာသောအားဖြင့်လည်းကောင်း၊ ဒကာဒကာမတို့၏သဒ္ဓါတရားကို မပျက်ပြားစေလို၍လည်းကောင်း၊ သာသနာအစွန့်ရှည်ကြာတည်တံ့ပြန့်ပွားရေးကိုလိုလားတော်မူသောကြောင့်လည်းကောင်း၊ လယ်တီတောရအတွင်း ရောက်လာသော တပည့်သံဃာတို့အား လက်ခံသိမ်းဆည်းတော်မူခဲ့ပါသည်။ တပည့်သံဃာတို့ကလည်း ၁၀-ပါး၊ ၁၅-ပါးစသည် တစ်စတစ်စရောက်ရှိတိုးပွားလာကြရာ မကြာမီမှာပင် လယ်တီတောကြီးအတွင်း၌ သံဃဝိဟာရကျောင်းကြီးတစ်ကျောင်း ဖြစ်ထွန်းပေါ်ပေါက်လာလေသည်။

လယ်တီတောကြီးအတွင်းပေါ်ထွန်းလာသောကျောင်းဖြစ်၍ 'လယ်တီတောရကျောင်း'*၁ ဟု အရပ်ကသမုတ်ခဲ့ကြသည်။*၂ ဘုန်းတော်ကြီးအရှင်ဉာဏကမူ ဖြစ်ပေါ်လာလတ္တံ့သော

*၁ ဦးဇေယျန္တ၏ ရန်ကုန်မြို့၊ အင်းစိန်ဆရာတော်ကြီးထေရုပ္ပတ္တိဒီပနီ (အဋ္ဌနထေရုပ္ပတ္တိဒီပနီ)။ (စာမျက်နှာ-၂၇)၌ 'လယ်ပြင်၌တည်ရသောကြောင့် လယ်တီတိုက်ဟုခေါ်ကြောင်း'ဟု ပြထား၏။ လယ်တီပဏ္ဍိတ၏ သဒ္ဒမဉ္ဇရီ။ (စာမျက်နှာ-၄၄၃)၌ 'လယ်တီတိုက်ကြီးသည် ရှေးရှိရင်း တော၏အမည်အားဖြင့် လယ်တီတိုက်ဟူ၍ ထင်ရှားကျော်စော၏'ဟုပြထား၏။

*၂ ဦးတိုက်ဝမ်း၏ ဝါတော်စဉ်ထေရုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ-၁၃)။

ဤလယ်တီတောရကျောင်းကြီးကို ပါဠိဘာသာဖြင့် 'သာဓုဇနပါသာဒိကာရာမ'ဟု မှည့်ခေါ်တော်မူခဲ့ပါသည်။*၁

ဘုန်းတော်ကြီးအရှင်ဉာဏသည် လယ်တီတောကျောင်းကို 'သာဓုဇနပါသာဒိကာရာမ' ဟူသောအမည်မှည့်ပုံနှင့်စပ်၍ ဆရာတော်ကြီး၏ဇာတိ စိုင်ပြင်ရွာမှရသော ပုရပိုက်တစ်ဆူတွင် ပါဠိဘာသာဖြင့်ရေးမှတ်ထားတော်မူခဲ့သည်မှာ အောက်ပါအတိုင်းဖြစ်၏။

သကတ္တ ပရတ္ထ သဒ်ါတေ ဒွေအတ္တေ သာဓေန္တီတိ သာဓဝေါ၊ အတ္တနော ကမ္မေန ဇာယန္တိ ကိလေသေဝါ ဇနေန္တီတိ ဇနာ။ သာဓဝေါ စ တေ ဇနာစာတိ သာဓုဇနာ၊ တေသံ သာဓုဇနာနံ ပသာဒံ ဝဟတိ ဇနယတီတိ သာဓုဇနပါသာဒိကော၊ အဇနာ နိဝါသမာနော အရညကဝိဟာရော။

သောဟိ သဥပစာရော။ တတ္ထ ပဝိဋ္ဌာနံ ဂဟဋ္ဌာနံ ပဗ္ဗဇိတာနံ ဝါ သဗ္ဗေသံပိ သပ္ပုရိသ ဇနာနံ သဒ္ဓါပဋိလာဘံ ကရောတိ။ အဟော သုဋ္ဌု အဟော သောဘဏော တိ၊ ပသန္နဝါစံ ဝါစာပေတိ။ တသ္မာ သေဝိဟာရော သာဓုဇနပါသာဒိကောတိ ပညာယတီတိ သာဓုဇနသန္တေန စေတ္တ အသာဓုရူပေ ဥဇ္ဈာနသညာဗဟုလေ ဂဟဋ္ဌေ ဝါ ပဗ္ဗဇိတေ ဝါ နိဝတ္တေတိ။ သာဓုရူပေ သဒ္ဓါဗဟုလေ ပရိဂ္ဂဏှာတိ။*၂–

မြန်မာပြန်။

[မိမိ,သူတစ်ပါး အကျိုးနှစ်ပါးကိုပြီးစေတတ်သောကြောင့် သူတော်ကောင်းဟုခေါ်သည်။ မိမိပြုလုပ်သော ကံကြောင့်လည်းဖြစ်တတ်၊ ကိလေသာတို့ကိုလည်း ဖြစ်စေတတ်သောကြောင့် လူဟုခေါ်သည်။ သူတော်ကောင်းလည်းဖြစ်၊ လူလည်း ဖြစ်သောသူကို 'သာဓုဇန=သူတော်ကောင်း'ဟုခေါ်သည်။ ထိုသူတော်ကောင်းတို့၏ ကြည်ညိုမှုကိုသယ်ဆောင်ထားသောကြောင့် 'သာဓုဇနပါသာဒိက'ခေါ်သည်။ (ယခုသီတင်းသုံးသူကင်းမဲ့ကြသော) တောရကျောင်းတည်း။ ဥပစာနှင့်တကွသော ထိုကျောင်းတိုက်ကား ကျောင်းတိုက်တွင်းသို့ ဝင်ရောက်လာသူ ရဟန်းရှင်လူအဆူဆူတို့အား သဒ္ဓါတရားကို ဖြစ်ပွားစေ၏။ သြော်...ကောင်းပေစွ၊ သြော်...တင့်တယ်ပေစွ–ဟု ကြည်ညိုဖွယ်စကားရွတ်ပွားစေ၏။ သို့ဖြစ်၍ ထိုကျောင်းတိုက်သည် 'သာဓုဇနပါသာဒိက'ဟု ထင်ရှား၏။ ။]

ဟုဖြစ်သည်။

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၃၀)။ လယ်တီဦးလှပိုင်၏ လယ်တီကဗ္ဗဝင်ကျော်များ။ (စာမျက်နှာ–၈၈)။

*၂ ဖော်ပြပါစာသားတို့ကို စိုင်ပြင်ရွာ၊ ကျောင်းမကျောင်းတိုက်ဆရာတော် ဦးဓမ္မပါလ ထိန်းသိမ်းထားသည့် လယ်တီဆရာတော်ကြီး၏ ပုရပိုက်ဟောင်းတစ်ဆူမှရရှိပါသည်။

တည်စလယ်တီ

လယ်တီတောရကျောင်း, လယ်တီတောတိုက်–ဟု အရပ်ကခေါ်ဆိုသမုတ်ကြလင့်ကစား စင်စစ်အားဖြင့် လယ်တီတောရကျောင်းသည်ကား သိမ်, တန်ဆောင်း, မုခ်ဦးပြာသာဒ်နှင့် အရံမီးတား, ရေတွင်းရေကန်စသည်ဖြင့် အခြေတကျတည်ထောင်ထားသော တိုက်တာမျိုး မဟုတ်ဘဲ၊ ဘုန်းတော်ကြီးအရှင်ဉာဏနှင့် တပည့်သံဃာများစုဝေးနေထိုင်သီတင်းသုံးရာဌာနကို ကျောင်းဟုသမုတ်ခေါ်ဆိုခြင်းမျှသာဖြစ်သည်။ ထိုအခါက ဝါးကျောင်းကလေးလေး,ငါးဆောင်မှ အပ အခြားအဆောက်အအုံဆို၍ ဆွမ်းစားဇရပ်မျှပင်မရှိခဲ့ပေ။ တည်စလယ်တီ၏အခြေအနေကို သိမီသူတို့ပြောပြချက်များအရ ဖော်ပြပါဦးမည်။

လယ်တီတောရကြီးအတွင်း၌ မိမိတရားဖြင့်မွေ့လျော်နေသော ဘုန်းတော်ကြီးအရှင်ဉာဏ အဖို့မှာ အရာရာမျှတ၍ ကာယစိတ္တနှစ်ဖြာသောသုခနှင့်ပြည့်စုံနေလင့်ကစား သီတင်းသုံးဖော် သံဃာတို့မှာ နေထိုင်စားသောက်ရေးဆင်းရဲချို့တဲ့လှပေသည်။ သို့ပေငြား ဘုန်းတော်ကြီး၏ အဆုံးအမကောင်းမှုကြောင့် အစားအနေဆင်းရဲသော်လည်း စိတ်ချမ်းသာကြကုန်၏။ အစား ဆင်းရဲခြင်းနှင့်စပ်၍ ဘုန်းတော်ကြီးက 'တပည့်တို့၊ အစားအသောက်ကိုမမက်ကြနှင့်၊ အစား အသောက်ညံ့မှ အာရုံအားငါးပါးမထကြွဘဲ တရားအားထုတ်ချင်ကြမှာကွယ့်'ဟုဆုံးမတော်မူခဲ့၏။*၁

ကျောင်းကန်အာဝါသမပြည့်စုံသည့်အတွက် မြွေပါးကင်းပါးကြောက်ရပြီး၊ အချမ်းအပူစသည် နှိပ်စက်မှုကြောင့် အအိပ်အနေဆင်းရဲရခြင်းနှင့်စပ်၍ ဘုန်းတော်ကြီးက–

'တပည့်တို့၊ အအိပ်အနေမမက်ကြနှင့်၊ အိပ်စက်မှုဟူသော ဖောမနောအရသာ၌ သာယာသောတရားသည် နိဒ္ဒါရာမတာတဏှာမည်၏။ ဤသာသနာတော်၌ ဗောဓိ ပက္ခိယမွေအစီးအပွားသည် အထွတ်အမြတ်ဖြစ်၏။ သတ္တဝါတို့အိပ်ကြရာ ဆိတ်ငြိမ် သောညဉ့်နာရီစုတွင် ဗောဓိပက္ခိယဘာဝနာစီးပွားကို အားထုတ်ကြရာ၏။ ထိုအချိန် နာရီတွေကို အိပ်မှုနှင့်ဖြုန်း၍မပစ်ကြကုန်နှင့်'ဟု ဆုံးမတော်မူပါသည်။*၂

လယ်တီတောရဘုန်းတော်ကြီးသည် မိမိသာ ဘာဝနာအလုပ်ဖြင့်အချိန်ကုန်လွန်စေသည် မဟုတ်ဘဲ တောရသံဃာတို့ကိုလည်း ဘာဝနာအလုပ်ဖြင့် အချိန်ကုန်လွန်စေရန် သတိပေး နေတော်မူလေ့ရှိသည်။ အထူးအားဖြင့် တောရသံဃာများသည် ညဉ့်ပိုင်းသို့ရောက်လျှင် ညစဉ် ဘုရားဝတ်တက်ပြီးပါက မိမိတို့၏အကျင့်သီလကိုစစ်ဆေးပြီးလျှင် အောက်ပါတရားတို့ကို ရွတ်ဆို နှလုံးသွင်းကြရသည်။

'မြတ်ဘုရားသာသနာ၊ ရောင်အဝါထွန်းလင်း၊ သည့်အခါတွင်းများမှာ၊ စားခြင်း, အိပ်မှု၊ ပစ္စည်းစု၍၊ ဗဟုကမ္မ၊ မောဃဝါစာ၊ ဗာဟိရအလေ့အကျက်များနှင့်၊ နေ့ရက်

*၁ ဤအချက်သည် မုံရွာမြို့ ရတနာပုံရပ် ဆရာကြီးဦးစိုးဂေါင် (၂၄-၄-၁၉၇၆)နေ့ပြောပြချက်ဖြစ်သည်။

*၂ လယ်တီဆရာတော်ကြီး၏ ဘာဝနာဒီပနီကျမ်း။ ဗုဒ္ဓသာသနအဖွဲ့။ ရန်ကုန်မြို့။ ၁၉၇၂-ခုနှစ်။ (စာမျက်နှာ-၁၄၈)။

တွေမျောပါသည်ကို သဘောမထား၊ စိတ်ပျော်ပါး၍၊ တရားမှလွတ်ကင်းသော၊ ရဟန်းဖျင်းရပာန်းယုတ်၊ ရဟန်းစုတ်ရဟန်းနုတ်၊ ရဟန်းတုရဟန်းယောင်၊ ရဟန်းကြောင်အနေများနှင့်၊ သေအောင်ပင်လုံးလုံး၊ တစ်ဘဝမဆုံးကြရအောင်၊ နှလုံးသွင်းကိုယ်စီယှဉ်၍၊ နေ့ညဥ့်စဉ်မပြတ်၊ တစ်ပဟိုရ်မလပ်ရအောင်၊ ပရိယတ်လက်ကိုင်ထားပြီးလျှင်၊ လေးပါးသောမြတ်သီလကို၊ သက်မကခင်မင်လျက်၊ ကိုယ့်စွမ်းအင်ကိုယ့်လုံ့လ၊ ကိုယ့်သဒ္ဓါဆန္ဒကို၊ မြမြကြီးထက်စေ၍၊ သကျာဝံသ၊ သုံးလောကဘုရင့်သား၊ ယောကျ်ားကောင်းပီပီ'–ဖြစ်စေရန်ဟူသော အဓိဋ္ဌာန်စာကိုရွတ်ဆို၍ အပ္ပမာဒသမဏကိစ္စ နှစ်သာရအမှုတို့၌ အားသစ်စေရပါသည်။*၁

လယ်တီတောရသံဃာတော်အပေါင်းသည် ဘုန်းတော်ကြီးဆုံးမသည့်အတိုင်း နေ့အခါ ဝါးတဲကျောင်းကလေးမှာနေ၍ ညအခါသစ်ပင်အောက်မှာနေရသည်။ စားသောက်မှုမှာ ယာသမားတို့လှူသော တစ်ထပ်စာဖြူနီကြောင်ကြားဆွမ်းနှင့် ဧရုတ်သီး, သကာစသည့်အာဟာရမျှသာဖြစ်၏။ ဘုန်းတော်ကြီးအရှင်ဉာဏသည် စာဝါချိန်၌ စာဝါပို့ချပေးသည်။ ညအခါ သစ်ပင်ဝါးပင်အောက်သို့ ခိုဝင်ကာ ညဥ့်ကိုမဖြုန်း တရားနှလုံးသွင်း၍ ကောင်းစွာအသုံးချသည့်နည်းတူကျန်သံဃာတို့အားလည်း ထိုနည်းတူကျင့်သုံးစေခဲ့ပါသည်။ သို့ဖြစ်၍ လယ်တီတောရအတွင်း 'နေ့–ပရိယတ်၊ ည–ပဋိပတ်'ဟူသောအသံကို ကျယ်ကျယ်လွင့်လွင့်ကြားနေကြရ၏။

ရပ်ထဲရွာထဲမှ ဒကာဒကာမများက လယ်တီတောရသံဃာများ အနေအထိုင်ဆင်းရဲလှသည်။ ခေါင်းအုံးမရှိ ခြုံစောင်လည်းမရှိဟုဆိုကာ ခေါင်းအုံး,စောင်စသည်လှူလိုသဖြင့် ခွင့်တောင်းလာကြလျှင် ဘုန်းတော်ကြီးအရှင်ဉာဏက မိမိအနီးရှိ ဝါးပိုးဝါးလုံးကြီးများ၊ ကျောက်တုံးကြီးများကိုညွှန်ပြပြီး 'ငါတို့မှာ အုံးစရာကျောက်တုံးတွေရှိသဟဲ့၊ ဝါးလုံးတွေဝါးခြမ်းကြီးတွေရှိသဟဲ့၊ နင်တို့ဟာတွေကို မလိုချင်ဘူး၊ တို့တောရဘုန်းကြီးများနှင့် မအပ်ဘူးကွယ့်' စသည်ဖြင့် မိန့်ကြားတော်မူကာ လက်သင့်မခံ ငြင်းပယ်တော်မူခဲ့ပါသည်။*၂

ဘုန်းတော်ကြီးအရှင်ဉာဏသည် စာပေအယူအဆဘက်၌ အသိဉာဏ်ခေတ်မီဆန်းသစ်သလောက် အနေအထိုင်ဘက်မှာမူကား ဘုရားသားတော်ပီပီရိုးသား၍ ဝိနည်းတော်အတိုင်းသာ အချိုးအစားကျနစွာနေထိုင်ပြီး တပည့်တို့အားလည်း ရှေးရိုးအတိုင်းသာနေထိုင်ကြရန် ညွှန်ပြပေးတော်မူပါသည်။ လယ်တီတောရသံဃာများ အနေအထိုင်ရိုးသားလှသောကြောင့် 'လယ်တီဘုန်းကြီး–တောဘုန်းကြီး'ဟုလည်း အရပ်ကခေါ်တွင်ခဲ့ကြပြန်ပါသည်။

---

*၁ လယ်တီဆရာတော်ကြီး၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၁၁၃)။

*၂ မုံရွာမြို့၊ မဟာလယ်တီတိုက် နိဗ္ဗာနဒီပနီကျောင်းဆရာတော်ဦးနန္ဒမာလာ (၂၄–၄–၁၉၇၆)နေ့ မိန့်ကြားချက်ဖြစ်သည်။ လယ်တီဆရာတော်ကြီးသည် ကိုယ်တော်တိုင် ဝါးဘုံးခြမ်းခေါင်းအုံးကို သုံးစွဲရုံမျှမက သံယုတ်ပါဠိတော် ကဠိင်္ဂရသုတ်၌ ဘုရားရှင်က အရှင်အာနန္ဒာအား 'ငါဘုရား၏ တပည့်သံဃာတို့ မှို့သွတ်သောခေါင်းအုံးကိုမအုံးဘဲ သစ်သားတုံးကို ခေါင်းအုံး၍အိပ်နေသမျှ ကာလပတ်လုံး ငါဘုရား၏ သာသနာမဆုတ်ယုတ်'ဟူသော ဩဝါဒကိုလည်း နှစ်သက်လှ၍ မကြာမကြာမိန့်ကြားတော်မူလေ့ရှိပါသည်။ လယ်တီဆရာတော်ကြီး၏ သာသနဝိသောဓနီ၊ ပထမတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၆၇)။

လယ်တီတောရကျောင်းနေသံဃာတော်တို့၏ မိဘဆွေမျိုးဒကာဒကာမတို့က မိမိတို့၏ တူ,သား,မြေး–စသည့်ရဟန်းငယ်ကလေးများ အနေအထိုင်ဆင်းရဲလှ၍ တောရအတွင်း 'ကျောင်းကလေးလှူလိုပါသည်'ဟုလျှောက်ထားလာလျှင် ဘုန်းတော်ကြီးအရှင်ဉာဏက 'ငါ့ကျောင်း–ငါ့ကျောင်း'ဟု ကျောင်းအစွဲမရောက်စေရန် တစ်မိုးတစ်ဝါခံရုံ ဝါးကျောင်းကလေးမျှကိုသာ ဆောက်လုပ်စီမံရန်ခွင့်ပြုတော်မူပါသည်။*[၁]

ကျောင်းကြီးကြီးဆောက်လှူလိုသောဒကာတို့ကိုမူ နောင်သောအခါ၌ 'ကြီးချင်သလောက်ကြီးပါစေ၊ ငွေနှစ်ရာထက်မကျော်စေနှင့်ကွယ်'ဟု မိန့်ကြားတော်မူသဖြင့် 'ငွေ–၂၀၀ နဲ့ ဘယ့်နှယ်ကျောင်းဆောက်လို့ရမှာတုန်း'ဟု စဉ်းစားမိကြကာ ဘုန်းတော်ကြီး၏သဘောဆန္ဒကိုသိရှိရိပ်မိကြပြီး ထိုကျောင်းဒကာဖြစ်လိုသူတို့ နောက်ဆုတ်သွားခဲ့ကြ၏။*[၂]

ထို့ပြင် လယ်တီတောရသံဃာတို့သည် မိမိတို့၏ပဓာနအလုပ်ဖြစ်သော ပရိယတ်ပဋိပတ် အမှုကိစ္စကိုထား၍ ဆွမ်းစဉ်ပရိတ်နောက်သို့လိုက်လေ့မရှိ။*[၃] လယ်တီတောရအတွင်း၌ အလွန် အနေအစားဆင်းရဲကြသော်လည်း ဘုန်းတော်ကြီး၏အသွန်အသင်အဆုံးအမကောင်းသောကြောင့် သံဃပရိသတ် တစ်စတစ်စများပြားတိုးတက်လာခဲ့၏။ လယ်တီတောရတည်စအခါက ရောက်ရှိ နေသောသံဃာတို့တွင်– (၁) ဦးသူရိန္ဒ၊*[၄] (၂) ဦးဇာဂရ၊*[၅] (၃) ဦးနန္ဒိယ၊*[၆] (၄) ဦးသီရိ၊*[၇] (၅) ဦးနေယျ၊*[၈] (၆) ဦးကောဏ္ဍည*[၉] တို့ ပါဝင်တော်မူကြပါသည်။

---

*၁ ဘုတလင်မြို့နယ်၊ ကင်းစမ်းရွာမှ အရှင်ဇာဂရသည် မုံရွာမြို့၊ လယ်တီတောရသို့သွားရောက်ပညာသင်ယူရာ ခမည်းတော်ဦးလှူကြီးက လယ်တီတောရအတွင်း ဇီးပင်အောက်တွင် တဲကျောင်းကလေးတစ်ကျောင်းဆောက်ပေးရဖူးသည်– အရှင်စာရိန္ဒ၏ အနောက်ပရက္ကမဆရာတော်၏ဖြစ်စဉ်နှင့်ကျင့်စဉ်။ ၁၉၈၂–ခုနှစ်။ (စာမျက်နှာ–၉၂)။

*၂ လယ်တီကျောင်းဒကာဦးကြယ်၏မြေး မန္တလေးမြို့ ယူနီဘာဆယ်မုန့်တိုက်ပိုင်ရှင်ဒေါ်တင်တင်ဦး၏ (၁၀–၄–၁၉၈၅)နေ့ ပြောပြချက်ဖြစ်သည်။ မုံရွာမြို့ လယ်တီတိုက်အတွင်း၌ ယခုအခါဖြစ်ပေါ်နေသောတိုက်ကျောင်းအများစုမှာ ဒုတိယလယ်တီ ဆရာတော်ကြီးလက်ထက်၌ဖြစ်သော ကျောင်းများသာဖြစ်သည်။

*၃ အရှင်စာရိန္ဒ၏ အနောက်ပရက္ကမဆရာတော်၏ဖြစ်စဉ်နှင့်ကျင့်စဉ်များ။ ၁၉၈၂–ခုနှစ်။ (စာမျက်နှာ–၉၃)။

*၄ ရန်ကုန်တိုင်း၊ ကွမ်းခြံကုန်းမြို့ ဓမ္မိကာရာမကွင်းကျောင်းဘုန်းကြီးဦးသူရိန္ဒဖြစ်သည်။ ထိုဦးသူရိန္ဒ၏ ပရမတ္ထသံခိပ် အဖြေကျမ်း၊ နိဂုံးလင်္ကာ၌ 'လယ်တီတိုက်မှာ၊ တောထွက်ရာ၊ မကွာနောက်ကပ်ပါ'ဟုဖော်ပြထား၍ ထိုဦးသူရိန္ဒသည် ဆရာတော်ကြီး လယ်တီတောရတည်စကပင်ရောက်ရှိခဲ့ဟန်တူသည်။ အရှင်သူရိန္ဒ၏ ပရမတ္ထသံခိပ်အဖြေကျမ်း။ ပြည်ကြီး မဏ္ဍိုင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၉–ခုနှစ်။ (စာမျက်နှာ–၁၅၀)။

*၅ ဗန့်ကျိုနယ် ကျီးနင်းရွာဇာတိ ဦးဇာဂရဖြစ်သည်။ နောင် လယ်ဇင်ရွာ ဓမ္မိကာရုံကျောင်းဘုန်းကြီးဖြစ်သည်။ အရှင်စာရိန္ဒ၏ အနောက် ပရက္ကမဆရာတော်၏ဖြစ်စဉ်နှင့်ကျင့်စဉ်များ။ ၁၉၈၂–ခုနှစ်။ (စာမျက်နှာ–၉၂)။

*၆ မုံရွာမြို့အနီး ငွေးသုံးပင်ရွာတောရကျောင်းနေ နိဗ္ဗာနမဂ္ဂဒီပနီကျမ်းပြု ဦးနန္ဒိယဟုထင်ရှားခဲ့သည်။

*၇ ကန္နီမြို့နယ် ကုန်းသာရွာဇာတိ အရှင်သီရိဖြစ်ပြီး၊ နောင်အခါ ကလေးဝမြို့ ဘီဆန်းဆရာတော်ဟုထင်ရှားသည်။

*၈ ကန္နီမြို့နယ် ကုန်းသာရွာဇာတိ ဗန်းလက်မြို့ မြို့သစ်ကျောင်းဘုန်းကြီး၊ နောင်အခါ ပထမကလေးဝတောကျောင်းဆရာတော် ဦးနေယျဟုထင်ရှားပြီး၊ ဘီဇန်းဆရာတော်၏ညီတော်လည်းဖြစ်သည်။

*၉ သုံးခွမြို့အပိုင် ညောင်နီပင်တောကျောင်း ဘာဝနာဒီပနီကျမ်းပြု ဦးကောဏ္ဍညဟု ထင်ရှားခဲ့သည်။ အရှင်ကောဏ္ဍည၏ ဘာဝနာဒီပနီကျမ်း။ မြန်မာသြဘာစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၇၀–ပြည့်နှစ်။

**လယ်တီကျောင်းတိုက်စည်းကမ်း**

ဘုန်းတော်ကြီးအရှင်ဉာဏသည် ကျောင်းကန်တိုက်တာအုပ်ချုပ်မှုဟူသော ပလိဗောဓ ကင်းငြိမ်းစေရန် တောရပ်မှီးလာခြင်းဖြစ်သော်လည်း၊ သံဃာပရိသတ်တိုးပွားလာသောအခါ၌ 'အာဂတော ဘာရော အဝဿံ အာဝဟိတဗ္ဗော'ဟူသော ဗုဒ္ဓ၏မိန့်ခွန်းတော်အတိုင်း မိမိအပေါ်သို့ ကျရောက်လာသော ပရိယတ်စသော သာသနာပြုစုရန်တာဝန်ကို မငြင်းစတမ်း ထမ်းဆောင် ဦးတော့မည်ဟူ၍ လယ်တီတောရကြီးအတွင်း၌ စည်းစနစ်ကျနသော တောရစာသင်တိုက် တစ်ခုအဖြစ်သို့ရောက်ရှိလာစေရန် ရွက်ဆောင်တော်မူခဲ့ပါသည်။

ဘုန်းတော်ကြီးအရှင်ဉာဏယ်စဉ် အနုထေရ်ဘဝသီတင်းသုံးနေထိုင်ခဲ့သော မန္တလေးမြို့ မြောက်ပြင်စံကျောင်းတိုက်ကြီးသည် စည်းကမ်းစနစ်အလွန်ကြီးသောစာသင်တိုက်ကြီးဖြစ်ပြီး၊ တတိယစံကျောင်းဆရာတော်ကြီးဦးသုဒဿနသည်လည်း တပည့်မွေးတပည့်ထိန်းရာ၌ အလွန် တော်သည်ဟု သတင်းကျော်ကြားသောမထေရ်ကြီးဖြစ်ပါသည်။အရှင်ဉာဏသည် စည်းကမ်းကြီး စနစ်ကျနသော စံကျောင်းတိုက်ထွက်ပီပီ အနေအထိုင်စည်းကမ်းကြီးမားပြီး မိမိတည်ထောင် သည့်ကျောင်းကန်တိုက်တာ၌ နေထိုင်ကြမည့်သံဃာတော်များကိုလည်း ဝိနည်းတော်နှင့်အညီ အချိုးကျနစွာ နေထိုင်ကြစေရန် လိုလားတော်မူလေသည်။

သို့ဖြစ်၍ လယ်တီတောရအတွင်း၌နေထိုင်သီတင်းသုံးမည့်ပုဂ္ဂိုလ်မှန်က အရညဝါသီတောရ ကျောင်းဖြစ်နေသည့်အတွက် ဓုတင်တစ်ဆယ့်သုံးပါး၌ စွမ်းနိုင်ရာရာဓုတင်တို့ကို ဆောင်သော ဓုတင်ဆောင်ပုဂ္ဂိုလ်ဖြစ်ရသည်။ 'နေ့မှာစာ၊ ညမှာဘာဝနာ'ဆိုသည့်အတိုင်း နေ့အခါ စာဝါများ တက်ကြရပြီးလျှင် ညအခါ၌ သစ်တစ်ပင်ဝါးတစ်ပင်အောက်သို့ခိုဝင်ကြကာ ကမ္မဋ္ဌာန်းဘာဝနာဖြင့် မွေ့လျော်ပျော်ပိုက်စေပါသည်။ အကယ်၍ ထိုဓုရနှစ်ပါး၌မပျော်ပိုက်နိုင်ပါမူ ဘုန်းတော်ကြီးက–

> သာသနာတော်၌ ဂန္ထဓုရ,ဝိပဿနာဓုရဟူ၍ ဓုရနှစ်ပါးရှိ၏။ စာပေကျမ်းဂန် သင်ကြားမှုသည် ဂန္ထဓုရမည်၏။ ဘာဝနာကမ္မဋ္ဌာန်းစီးဖြန်းမှုသည် ဝိပဿနာဓုရ မည်၏။ သာသနာတော်၌ ရဟန်းဖြစ်သောသူသည် ဓုရနှစ်ပါးတွင် တစ်ပါးပါးသော ဓုရ၌ပျော်မွေ့ရာ၏။ တစ်ပါးပါးသောဓုရ၌မပျော်မွေ့ဘဲ သက်မွေးဝမ်းကျောင်းမှုနှင့် ကိစ္စကုန်၍ သိက္ခာသီလနည်းပါး စတုပစ္စယတဏှာလွန်ကဲလျက် အလူးအလဲခံကာ မနေရာ၊ သိက္ခာချ၍ လူထွက်ရာ၏။*၁

ဟူသောဩဝါဒစကားအပြင် 'ဘုန်းကြီး–ဘုန်းကြီးလိုမနေနိုင်ရင် လူထွက်ကြ'ဟု ခပ်တင်း တင်း မိန့်ကြားတော်မူပါသည်။

လယ်တီတောရသံဃာတော်တို့ ဒွေမာတိကာကို နှုတ်တက်ရွရွဆောင်ကြရသည်။ ဒွေ မာတိကာ နှုတ်တက်ရမှ လယ်တီတောရ၌နေထိုင်ခွင့်ရကြသည်။ နောင်အခါ ဘုန်းတော်ကြီး

---

*၁ လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်ကျမ်း။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁၀၆)။

အရှင်ဉာဏက ဒွေမာတိကာတွင် ဘိက္ခုပါတိမောက်ကိုသာ နှုတ်ရဆောင်စေ၏။ ဘိက္ခုနီပါတိမောက်ကိုမူ 'ယခုအခါ၌ ဘိက္ခုနီမတို့ မရှိကြကုန်ပြီဖြစ်၍ ဘိက္ခုနီပါတိမောက်ကို အရ မလိုပြီ၊ ဘိက္ခုပါတိမောက် တစ်စောင်ရလျှင်ပင် သင့်လျော်ပြီ'*၁ ဟု မိန့်ဆိုတော်မူခဲ့၏။

ရဟန်းဖြစ်ပါလျက်နှင့် ဝိနည်းမကျွမ်းမကျင် မလိမ္မာသည့်အတွက် အာပတ်သင့်သော်မှ သင့်မှန်းမသိဖြစ်မည်ကိုလည်း အလွန်စိုးရိမ်တော်မူသောကြောင့် ဘုန်းတော်ကြီးကဆုံးမတော်မူပုံ တစ်ရပ်မှာ–

'နယ်မှဘုန်းကြီးတစ်ပါးသည် (မန္တလေး)မြို့တော်သို့ရောက်လာရာ မန္တလေးသံဃာများ နေ့စဉ်အာပတ်ဒေသနာကြားသည်ကိုမြင်လျှင်– ဤမန္တလေးသံဃာများသည် အလွန်ဆိုးကြ၏၊ နေ့တိုင်းအာပတ်ဖြေရ၏၊ ငါတို့မှာ ဝါနှစ်ဆယ်ရပြီ၊ တစ်ခါမှ အာပတ်မသင့်ဘူး–ဟု ထိုရဟန်းဆိုသည်ကို ကြားဖူးရ၏။ ဆိုခြင်းအကြောင်းမှာ ဝိနည်းမတတ်သဖြင့် အာပတ်သင့်သော်လည်း သင့်မှန်းမသိသောကြောင့်ဆိုခြင်းပေတည်း'–ဟူ၍ဖြစ်သည်။*၂

လယ်တီတောရကျောင်းနေသံဃာတော်တို့အား 'ဝိနည်းတရားသည် သာသနာတော်၏ အသက်၊ ဝိနည်းတည်မှ သာသနာတည်သည်'ဟု ပညတ်ထားတော်မူသည့်အတိုင်း ဝိနည်းတော်နှင့်အညီ သီလစင်စင်ကြယ်ကြယ် သိက္ခာရှိရှိသမာဓိတည်တည် နေထိုင်ကျင့်သုံးစေလိုသော ဆန္ဒရှိတော်မူလေသည်။ ထိုသို့ဆန္ဒရှိတော်မူသည့်အတိုင်း တောရသံဃာမှန်က ရှေးဦးပထမ သီလစင်ကြယ်အောင်စောင့်ထိန်းရမည်။

သီလကိုစောင့်ထိန်းရာမှာလည်း ကာယကံ၊ဝစီကံ၊မနောကံဟု ကံသုံးပါးရှိရာ၌ အာရုံနှင့်တွေ့လျှင် အလွန်ဖောက်ပြန်လွယ်သော စိတ်မနော၏ အလွန်နူးညံ့သိမ်မွေ့သောသဘာဝကို သိတော်မူပြီးဖြစ်လေသည့်အတွက် မနောကံကို တင်းတင်းကြပ်ကြပ်ထိန်းသိမ်းရန် ဆိုဆုံးမတော်မူလေ့ရှိပါသည်။ မနောကံထိန်းသည်ဟူရာ၌ မိမိ၏စိတ်ကိုပေါက်လွှတ်မထားဘဲ စည်းကမ်းတကျထားရန် စိတ်ကောင်းမွေးရန်ပင်ဖြစ်သည်။ မနောကံကို အလေးထားပြီး ထိန်းသိမ်းဖို့အတွက် ဘုန်းတော်ကြီး၏ဩဝါဒတစ်ရပ်မှာ ဤသို့ဖြစ်၏။

မနောကံကိုလွှတ်ထား၍ရမည်လောဟု ဆိုဖွယ်ရှိ၏။ အဘယ့်ကြောင့်လွှတ်၍ ထားရမည်နည်း။ မနောကံဆိုင်ရာကျင့်ဝတ်တရားတွေ များစွာရှိလေပြီ။ ကမ္မဋ္ဌာန်း–၄၀၊ ဘာဝနာ–၄၀၊ ဝိသုဒ္ဓိ ၇–ပါးတွင် အထက်ဝိသုဒ္ဓိ ၆–ပါး, ဝိပဿနာဉာဏ် ၁၀–ပါး ကျင့်ဝတ္တရားများသည် မနောကံကိုသုတ်သင်မှုကြီးပေတည်း။ ကာယကံ, ဝစီကံသုတ်သင်မှုတို့ထက် မနောကံသုတ်သင်မှုသည် အလွန်ကြီးကျယ်၏။ လိုရင်းပဓာနလည်းဖြစ်၏။ လူတို့မှာ လယ်လုပ်ဆောင်ကြရာ၌ လယ်ယာကိုလုံခြုံအောင်

---

*၁ လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်ကျမ်း။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁၃၉)။

*၂ လယ်တီဆရာတော်ကြီး၏ သာသနဝိသောဓနီ၊ ပထမတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၃၀)။

ဆူးစည်းကာရန်မှုလည်းရှိ၏။ လယ်ယာတွင်း၌ ထွန်မှု, ယက်မှု, စိုက်ပျိုးမှု, စောင့်ရှောက်မှု စသည်လည်းရှိ၏။ လုပ်ဆောင်မှုသည် အလွန်ကြီးကျယ်၏။ လိုရင်းပဓာနလည်းဖြစ်၏။ ကာယကံ, ဝစီကံကို ခံယူစောင့်ထိန်းမှုများသည် ဆူးစည်းကာရန်မှုနှင့်တူ၏။ မနောကံကိုသုတ်သင်မှုသည် လယ်တွင်းယာတွင်း၌ အလုပ်ကြီးများနှင့်တူ၏။[*၁] –ဟုဖြစ်သည်။

လယ်တီတောရအတွင်းနေ သံဃာတော်များ အရပ်ထဲကိစ္စရှိ၍ကြွသော်မှ 'လယ်တီက' ဟုပြောစရာမလိုဘဲ အလိုလိုသိပြီးသားဖြစ်စေရန် သင်္ကန်းဝတ်ရုံပုံ, လှုပ်ရှားသွားလာနေထိုင်ပုံကအစ အချိုးတကျရှိနေကြရန် သင်္ကန်းအဝတ်အရုံကိုလည်း ဘုန်းတော်ကြီး ဆုံးမတော်မူခဲ့ပါသည်။

အထူးသဖြင့် ဆွမ်းကိစ္စတွင် ပို၍ဆုံးမသည်ဟုဆိုနိုင်သည်။ အကြောင်းမှာ လယ်တီတောရအနီး၌ ပစ္စည်းပြည့်စုံသူဟုမရှိ၊ ဆင်းရဲသူချည်းနေထိုင်ကြရကား ထိုဆင်းရဲသားတို့၏ တစ်လုတ်ထမင်း, တစ်ရှုပ်ဟင်းကို ဝေခွဲဘုဉ်းပေးမည့် ရဟန်းသည် မိမိရလာသောဆွမ်း၏တန်ဖိုးကိုသိပြီး၊ ထိုဆွမ်းအပေါ်၌ ရိုသေလေးမြတ်သောစိတ် ထားစေလို၍ဖြစ်သည်။ သို့ပါ၍ ဆွမ်းခံထွက်ကြရာမှာ 'ဆွမ်းခံရိုသေ၊ မလေငြိမ်စိတ်၊ သပိတ်မှာထား၊ ဟင်းအားမျှရုံ၊ ညီတုံနားရေး၊ သတိရေး' ဟု ဝိနည်းတော်အတိုင်း ဆောင်ပုဒ်စီလျက် ဆုံးမတော်မူပါသည်။

> ဆွမ်းခံရိုသေ–ဆိုသည်ကား လောင်းသောဆွမ်းကိုမခံလိုဘိသကဲ့သို့ လောင်းဆဲအခါ၌ ပေါ့စီပေါ့စားမပြုမူ၍ ဆင်းရဲစွာသောယောက်ျားအား ရွှေငွေရတနာကိုပေးလာသော် မဖိတ်မယိုစေဘဲရိုသေစွာခံဘိသကဲ့သို့ခံရမည်–စသည်ဖြင့် ရှင်းလင်းမိန့်ကြားကာ ဆုံးမတော်မူပါသည်။[*၂]

လယ်တီဘုန်းတော်ကြီးက ဆွမ်းအာဟာရကိုလောင်းလှူကြသော ဒါနရှင်လောကီလူသားတို့သည် ထိုဆွမ်းတစ်ဖွန်းတစ်ယောက်မလောင်းလှူနိုင်ရန် အလွန်ပင်ပန်းဆင်းရဲကြီးစွာရှာဖွေလုပ်ကိုင်ကြရသည်ဖြစ်၍ လှူဒကာတို့အပန်းတကြီးရှာဖွေကာ မွန်မွန်မြတ်မြတ်ကောင်းနိုးရာရာ စားဦးစားဖျားအနေဖြင့်လှူလိုက်သော ထိုတစ်ဖွန်းတစ်ယောက်မမျှလောက်သောဆွမ်းကို မထေမဲ့ကင်းမပြုကြဘဲ တန်ဖိုးထားရန် အစဉ်သတိပေးတော်မူပါသည်။

'ရဟန်းတရား၊ ကျင့်ကြံပါလျက်၊ အစားဖျက်သည်'[*၃] ဟူသော တောင်ဖီလာဆရာတော်ကြီးတို့၏ရှေးသြဝါဒအတိုင်း ရဟန်းမည်သည် အာဟာရကိစ္စ၌ဇာမချဲ့ရ၊ လူတို့လှူဒါန်းသည်ကိုလည်း အထင်မသေး၊ တန်ဖိုးမထား ပစ်စလက်ခတ်မလုပ်ရ၊ ဆွမ်းနှင့်စပ်၍ ဟိုဟင်းမစားနိုင်,

---

*၁ လယ်တီဆရာတော်ကြီး၏ သာသနဝိသောဓနီ၊ ပထမတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၃၀)။

*၂ လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်ကျမ်း။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၉၆)။

*၃ မာဃဒေဝ၏ ဆုံးမစာပေါင်းချုပ်ကြီး။ ၁၉၈၈–ခုနှစ်။ (စာမျက်နှာ–၆၃)။

ဒီဟင်းမစားချင် ဇီဇာချဲ့ထွင်စားခြင်းမျိုးမှအစ ထွေထွေလာလာစားသောက်လိုခြင်းများ မရှိကြ စေရန် လယ်တီတောရဘုန်းတော်ကြီးအရှင်ဉာဏ၏ အဆုံးအမတစ်ရပ်မှာ–

'ဤလောက၌ အသက်မွေးမှုသည် အကြီးကျယ်ဆုံးသောအမှုဖြစ်၏။ မိမိ အသက်ကို မိမိကိုယ်တိုင် လုပ်ကိုင်ရှာကြံ၍မွေးရသောသူသည် ပရိယတ်,ပဋိပတ်နှင့် အလွန်ကွာလှမ်း၏။ မိမိအသက်ကို သူတစ်ပါးတို့ကမွေးမြူ၍ပေးမှသာ အသက်မွေးမှု ချောင်သဖြင့် ပရိယတ်ပဋိပတ်ကို တွင်ကျယ်စွာအားထုတ်ခွင့်ရခြင်းငှာ မိမိအသက်ကို မိမိကိုယ်တိုင် လုပ်ကိုင်ရှာကြံမွေးမြူရသောလူ့အဖြစ်ကိုစွန့်ပစ်၍ မိမိအသက်ကို ရပ်ရွာနေသူလူတို့ကမွေးမြူ၍ပေးရသော ရဟန်းအဖြစ်သို့ကပ်ရသည်။ ရပ်ရွာနေသူ လူတို့က မွေးမြူ၍ပေးရသော ရဟန်းအဖြစ်မည်သည် ရပ်ရွာနေသူလူတို့နှင့် အစား အစာ ကွဲပြား၍မလျော်။ ရပ်ရွာနေသူလူတို့စားရာ အစာအာဟာရကို ရဟန်းက စားနိုင်မှလျော်သည်။ ရွာသူတို့စားဦးသောက်ဦးနှင့် ရဟန်းကအာဟာရကိုစွပြီးစီးမှ လျော်သည်'[*၁] ဟူ၍လည်း ဆုံးမတော်မူပါသည်။

လယ်တီဘုန်းတော်ကြီး၏သာသနာပြုလမ်းစဉ်တွင် စာပေပရိယတ်ကိုသင်သည်ဖြစ်စေ၊ အကျင့်ပဋိပတ်ကိုအားထုတ်သည်ဖြစ်စေ လက်ဦးပြည့်စုံအောင်ဖြည့်ဆည်းရမည်မှာ ကိုယ်ကျင့် သီလဖြစ်၏။ ရဟန်းတို့၏ကိုယ်ကျင့်သီလပြည့်ရေးသည် ဝိနည်းတော်နှင့်အညီနေထိုင်ရေးပင်ဖြစ်၏။ ဝိနည်းကျင့်ဝတ်ကိုရိုသေလေးစားပြီး စိတ်ကောင်းနှလုံးကောင်းရှိမှသာ သာသနာစောင့်လူ ပုဂ္ဂိုလ်များ သာသနာပြုပုဂ္ဂိုလ်များပေါ်ထွန်းလာပေမည်ဟု အယူအဆရှိတော်မူသည်။ သို့ဖြစ်၍ 'လယ်တီကပ်လျှင် စာတတ်သည် သဒ္ဒါတတ်သည်'ဟူသောစကားသည် လယ်တီတိုက်တည်ပြီး နောက် ကာလအတန်ကြာမှပေါ်ထွန်းလာသည့်ဆောင်ပုဒ်ဖြစ်ပြီးလျှင် ရှေးရှေးအခါ လယ်တီတိုက် တည်စကမူ 'လယ်တီကပ်မှ အကျင့်တတ်သည်'ဟူသော စကားတစ်ရပ်လည်း ပေါ်ထွန်းခဲ့ သေး၏။ အကျင့်တတ်–ဟုဆိုရာတွင် 'အကျင့်'ဟူသည် ဝိနည်းအကျင့်ကိုဆိုလိုသည်။

လယ်တီတောရသံဃာများသည် ဘုန်းတော်ကြီးအရှင်ဉာဏ၏အထိန်းအသိမ်းကောင်းခြင်းနှင့် အနေအထိုင်ကောင်းခြင်းတို့ကြောင့် တစ်နေ့တစ်ခြားကြည်ညိုသူတွေပေါ်များလာကာ လယ်တီ တိုက်တည်သော ပထမတစ်နှစ်အတွင်းမှာပင် အရပ်ဒေသအသီးသီးမှ စာသင်သားများ တဖွဲဖွဲ ရောက်ရှိလာကြတော့သည်။

### သာသနာလျှောက်

လယ်တီဘုန်းတော်ကြီးသည် စံကျောင်းတိုက်၌နေစဉ် ညအခါဘုရားဝတ်တက်ပြီးတိုင်း ရွတ်ဆိုခဲ့ရသော စံကျောင်းဆရာတော်ကြီးဦးသုဒဿန၏ 'ဘုရားသစ်ရွှေပြည်နိဗ္ဗာန်စံတော်မူသည် နေ့မှစ၍'အစချီသော သာသနာ့လျှောက်စာကို အမှတ်ရသည်ဖြစ်၍၊ လယ်တီတောရသံဃာ

*၁ လယ်တီဆရာတော်ကြီး၏ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်၊ ဒုတိယတွဲ။ မဟိန္ဒပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ–၅၀၄)။

တို့အားလည်း အတိတ်သာသနာနှစ်၊ တည်ဆဲနှစ်တို့ကိုသိစေရန်တစ်ကြောင်း၊ အချိန်ကာလကုန်သည်နှင့်အမျှ ခန္ဓာ့အသက်အကြွင်းနည်းလေပြီကိုသိကာ သတိသံဝေဂဆင်ခြင်ကြစေရန်တစ်ကြောင်း-စသည်ရည်သန်၍ အောက်ပါသာသနာ့လျှောက်စာကိုရေးသား၍ ညစဉ် ဘုရားဝတ်တက်ပြီးတိုင်း ရွတ်ဆိုစေပါသည်။*၁

သတ္တဝါအများ သောင်းတိုက်သားတို့၏ ပတ္တမြားသရဖူ ဖြစ်တော်မူသော သဗ္ဗညုရှင်စောသည် သုံးလောကအချက် သံသရာဂယက်မှ မထွက်နိုင်နစ်မျော၍ တမောမောနေကြသော ဝေနေယျာအထု သတ္တဝါအနုတွေကို ကရုဏာဗလဝ သနားတော်မူလှ၍ အမတအမြိုက် ရွှေလက်တော်ဆိုက်ပြီးကို သိမ်းပိုက်တော်မမူဘဲ ပါရဂူထဲနီး သယမ္ဘူဂုဏ်ချီးလျက် ပွဲအသီးငါခံမည်ဟု အကြံတော်ရောနှင့် ရွှေဗျာဒိတ် ဖင်ပန်းကို ဆင်မြန်းတော်မူပြီး၍ အသင်္ချေ့အသင်္ချေ လေးကြိမ်တိုင်လွန်စေလျက် သိန်းကပ္ပေအပြည့် ဘဒ္ဒကပ်အလှည့်တွင် ဖြည့်ပြီးသည့်ပါရမီကြောင့် သာကီနွယ် နေညွှန့်ဝယ် ဆွေအစွန့်ဆက်မီးလျက် မင်္ဂခရီးရွှေလှစ်သည့် သပြေခေတ်ဗွေအင္ဂ ပလ္လင်ကြော့ရွှေတမှုဝယ် နေတဆူရောင်တောက်သို့ ပြောင်မြောက်တော်မူပြီးမှ ကောဏ္ဍညအစ- သုဘဒ္ဒအဆုံး ကျွတ်ထိုက်သူအားလုံးကို တရားဖုံးလွှတ်ကြွေ၍ ကျွတ်ပွဲကြီးခံပြီးနောက် ခရီးထောက်တစခန်း ပြည်နိဗ္ဗူအမြန်းတွင် ပန်းမဋ္ဌု လျှာညိတ်၍ ဗျာဒိတ်တော်သ,ခဲ့သည်။

သဒ္ဓမ္မသုံးဖြာ၊ သာသနာနှစ်ပေါင်းကား၊ ငါးထောင်ဖြစ်ပါသည်ဘုရား။ ထို သာသနာငါးထောင်အနက် လွန်ခဲ့ပြီးသောအတိတ်သာသနာတော်မြတ်သည်ကား (...........)နှစ် ဖြစ်ပါသည်ဘုရား၊ ဝေနေယျအကျိုးကို သယ်ပိုးရွက်ဆောင်ကာ နောင်လာလတ္တံ့သော အနာဂတ်သာသနာသည်ကား(...........)နှစ် ဖြစ်ပါသည် ဘုရား။

ယခုဝေါဟာ၊ ကောဇာတွက်စစ်၊ သက္ကရာဇ်ကား၊ (၁၂...ခုနှစ်၊ ဥတုဂိမ္ဟန္တ၊ တပေါင်းလပြည့်ကျော်(...)ရက်၊ (...........)နေ့ ဖြစ်ပါသည်ဘုရား။

*၁ သာသနာလျှောက်စာဟူသည်မှာ 'ဤဘဒ္ဒကမ္ဘာ၌ မဟာသမ္မတမင်း မင်းပြုသည်မှစ၍ ကကုသန်စသော ဘုရားသုံးဆူတို့ ပွင့်တော်မူခြင်း၊ ဂေါတမမြတ်စွာဘုရား သန္ဓေနေတော်မူသည်မှ ဘုရားဖြစ်တော်မူ၍ ပရိနိဗ္ဗာန်ပြုတော်မူခြင်း၊ ထို့နောက် ပထမသံဂါယနာတင်မှစ၍ သံဂါယနာအဆက်ဆက်တင်ခဲ့ပုံနှင့်တကွ ယခု မည်သည့်ခုနှစ်၊ လ၊ ရက်သို့ရောက်နေသည်ကို လျှောက်ကြားပြောဆိုသောစာ'ပင် ဖြစ်၏။ ရှေးအခါ တောရွာများတွင် ပြက္ခဒိန်မရှိ၊ ရက်လကိုလည်းမသိနိုင်သည့်အတွက် ရပ်ရွာထဲသို့ ကျောင်းသားကိုရင်များ ဆွမ်းခံသွားလျှင် ဤသာသနာ့လျှောက်စာကို ကျက်၍သွားပြီး ရွာထဲက ရက်မေးလျှင် ပြောပြရသည်။ သာသနာလျှောက်စာကို ရှေးအခါကပြက္ခဒိန်သဖွယ်အသုံးပြုခဲ့ကြောင်းသိနိုင်သည်။ မန္တလေးရတနာပုံ ခေတ်တွင် စလေဦးပုညနှင့် ညောင်ပင်သာဦးပုညတို့၏သာသနာ့လျှောက်စာတို့သည်ထင်ရှားခဲ့၏။ 'ဘုရားသစ် ရွှေပြည် နိဗ္ဗာန်'အစရှိသော သာသနာလျှောက်စာမှာ စံကျောင်းဆရာတော်ကြီးဦးသုဒဿန သက္ကရာဇ်-၁၂၃၁ (အေဒီ-၁၈၆၉) ခုနှစ်တွင် ရေးတော်မူခဲ့သည်။ ဦးမောင်မောင်တင်(မဟာဝိဇ္ဇာ)၏ အနှစ်တစ်ရာက သာသနာလျှောက်(ဆောင်းပါး)။ ငွေတာရီမဂ္ဂဇင်း၊ အမှတ်-၁၁၉။ ၁၉၆၉-ခုနှစ်၊ ဇူလိုင်လ။ (စာမျက်နှာ-၃၂)။

ယင်းသို့လျှင် သာသနာနှစ်အကြွင်း အားနည်းသည်ဖြစ်ခြင်းကို သစ်လင်းစွာ မျှော်ရှုလျက် ခုသန္တာန်ခုဘဝလို ဟန်ရသည့်အချက်ကို ဆက်လက်ရန်အရေး မြော်လေလေဝေးသောကြောင့် တေဘုမ္မိဝဋ်နွယ်မှ ကျွတ်လွယ်ရန်အမူကို ယခုမှရဲရဲ လွတ်လွတ်ကြီးမခဲဘဲ ကျိုချွဲချွဲယောင်တောင်တောင် အသည်းတော်ကြောင်ကြလျှင် နောင်တ,တွေပွေရှုပ် ကိလေသာငုတ်တုတ်နှင့် မြုပ်မြုံမြုပ် မျောမြဲမျော ဝဋ်ပုပ်လယ် တကြောမှာ တဖောဖောနေကြရတော့မည်။

သို့ဖြစ်ပါ၍ သည်ခန္ဓာသည်အသက် သည်ကိုယ်ကောင်အတွက်နှင့် သက်သာ ခွင့်မရှိ ပရိယာယ်မပိုဘဲ ထေရ်ပုဂ္ဂိုလ်သူတော်ကောင်းတို့ မူဟောင်းကိုစံယူလျက် သယမ္ဘူသက်နှင်း သည်သခင့်လက်တွင်းမှ ထွက်ညင်းကာသွေဖီဘို့ ပွေပလီ ဉာဏ်စုတ်နှင့် ဟန်လုပ်တော်မမူကြဘဲ တဖြူထဲတဖြောင့်ထဲ သူ့ထက်ငါခဲမည်ဟု ရဲရဲကြီးကြံ၍ ဟန်ရသည့်အချက် သည်ဘဝတသက် ဤခန္ဓာအတွက်ကို မြက်တပင် အလေးမျှ အရေးတော်မယူကြဘဲ သဗ္ဗညုဘုရား၏ ဘက်တော်သားလုံးလုံး မဖြစ်လျှင်အဆုံးဟု စိတ်တုံးတုံးချပြီးလျှင် သခါရအစစ် ဤခန္ဓာအဖြစ်ကို သနစ်ကုန် လှန်လှောလျက် ဉာဏ်သဘောနယ်ချဲ့၍ ရွယ်ခဲ့ရင်းတခု ဘက်တော်ပါအမူကို ခုဘဝနောက်ဘဝ လွယ်ကူစွာရစိမ့်ဟု လုလုကြီးတင်စား စွမ်းသလောက်ကြိုးစား၍ အားတိုက်ကြီးခဲ့တော်မူကြပါမည့်အကြောင်းကို ဖော့ဖယောင်းတူလျှော် လက်ဆယ်ပွင့် ထူမော်လျက် ပူဇော်ကာလျှောက်ဝံ့ပါသည်ဘုရား။*[၁]

ဤသာသနာလျှောက်စာသည် ကိုရင်သာမဏေ၊ ကျောင်းသား လူဝတ်ကြောင်ကပ္ပိယ စသည်တို့အတွက် အထူးရည်ရွယ်ပြီး ရေးသားခြင်းဖြစ်သည်။ ရဟန်းတော်တို့အတွက်မူ သာသနာလျှောက်စာ တစ်မျိုးကို တစ်သီးတစ်သန့်ရေးပေးတော်မူခဲ့ပါသည်။*[၂]

ကိုရင်သာမဏေတို့အဖို့မှာ သာသနာလျှောက်ကို ညစဉ်ဆိုခြင်းဖြင့် ရောက်ဆဲခုနှစ်, လ, ရက်တို့ကို အစဉ်သိနေ ခြင်းအားဖြင့် ရပ်ထဲရွာထဲကိစ္စနှင့်ကြွကြသော်မှ ရပ်ရွာကဒကာအများက 'ယနေ့ ဘာနေ့ပါလဲ'ဟုမေးလျှင် လွယ်လင့်တကူဖြေဆိုနိုင်ရန်ကိုလည်း ရည်ရွယ်ချက်တစ်ခု ဖြစ်လေသည်။*[၃]

**လယ်တီတောရနှင့် ဒကာ–ဒကာမဆက်ဆံရေး**

ဘုန်းတော်ကြီးအရှင်ဉာဏသည် အထက်၌ပြဆိုခဲ့သည့်အတိုင်း တောရသံဃာတော်တို့ကို အချိုးကျနအောင် ပိုင်ပိုင်နိုင်နိုင်စီမံအုပ်ချုပ်တော်မူသကဲ့သို့ တောရကျောင်းနှင့်စပ်သော ဒကာ

---

*၁ လယ်တီဆရာတော်ကြီး၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၆၄)။

*၂ ထိုလျှောက်စာကို လယ်တီဆရာတော်ကြီး၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၁၁၁)၌ ရှုပါ။

*၃ ထိုခေတ်က ပြက္ခဒိန်ဟုမပေါ်သေးပေ။ သို့ဖြစ်၍ သာသနာလျှောက်ကိုအလေ့အကျက်ရှိသော ကိုရင်သာမဏေ, ရဟန်း– စသည်တို့ကသာ လူပြက္ခဒိန်(တစ်နည်း)လမ်းလျှောက်ပြက္ခဒိန်သဖွယ် ဆောင်ရွက်ကြခြင်းဖြစ်သည်။ ဦးသိန်းတန်၏ မြန်မာ့ပြက္ခဒိန်။ စာပေနှင့်လူမှုရေးသိပ္ပံဂျာနယ်၊ အတွဲ–၃၊ အမှတ်–၂။ ၁၉၇၀–ပြည့်နှစ်၊ မေလ။ (စာမျက်နှာ–၁၉၁)။

ဒကာမတို့အားလည်း သာသနာတော်၌ကိုယ်စိတ်နှစ်ပါးညွတ်နူးနေကြစေရန် ဆုံးမခြင်းဖြင့်လည်း သာသနာပြုတော်မူပေသေးသည်။

ဘုန်းတော်ကြီးသည် စာပေပို့ချခြင်း၊ စာပေကြည့်ရှုသုံးသပ်ခြင်း၊ တရားဘာဝနာအားထုတ်ခြင်းဟူသော လောကရေးမဖက်ဓမ္မရေးသက်သက်ဖြင့် ကာလကိုကုန်လွန်စေပြီး လူဝတ်ကြောင်တို့နှင့် ပစ္စည်းအားဖြင့်ဖြစ်စေ၊ စကားအားဖြင့်ဖြစ်စေ မည်သည့်ဆက်စပ်မှုမှမရှိစေဘဲ ရှေးခေတ်ဘုန်းတော်ကြီးတို့ထုံးစံ ကင်းလွတ်အောင်နေတော်မူခဲ့ပါသည်။ သို့ပါသော် ထိုစဉ်အခါကာလသည် တိုင်းပျက်ပြည်ပျက်ပြီးစ ခေတ်ကာလမကောင်းစဉ်အခိုက်ဖြစ်၍ မိမိကိုအားကိုး၍မှီခိုလာသော ဒကာ,ဒကာမတို့အပေါ် လျစ်လျူရှုခြင်းမပြုဘဲ ကြီးမားသောမေတ္တာကရုဏာဖြင့် ဟောသင့်သော တရားကို ဟောပြောပေးတော်မူ၏။ ဆုံးမဖွယ်ရှိသည်ကို ဆုံးမပေးတော်မူ၏။ ခေတ်ပျက်ကာလပျက်နှင့်ဆုံကြုံရခိုက် ကိုယ်စိတ်နှစ်ပါးတို့ကို သာသနာတော်၌သာသက်ဝင်နေကြစေရန် ဆုံးမတော်မူခဲ့၏။ သို့လျှင် ဒကာ,ဒကာမတို့ကိုဆက်ဆံရလင့်ကစား မည်သည့် ဒကာ,ဒကာမကိုမျှ 'ငါ့ဒကာ'ဟူသောအစွဲအမှတ်ထားတော်မူခြင်း၊ ဦးစားပေးဆက်ဆံခြင်းမျိုးကား လုံးလုံးကင်းကင်းရှိတော်မူပေသည်။

ထိုစဉ်အခါက လယ်တီတောရကျောင်းအတွင်းသို့ ဥပုသ်သီတင်းစောင့်သုံးရန်လာကြသော ဒကာကြီးများတွင် ကျောင်းဒကာကြီးသဂြိုဟ်ဦးဝိုင်း၊ ဦးရွှေသာ(ညောင်တပင်)၊ မုံရွာသူကြီးဦးအို၊ ကျောင်းဒကာဦးကြယ်၊ ဦးနတ်ပေး(ကုန်သည်)၊ စစ်ကဲကြီးဦးရိုက်(ညောင်တပင်)၊ ဦးရင်မောင်(ညောင်တပင်)၊ ဦးထူး(တရုတ်တန်း)၊ မြို့အုပ်ဦးဖိုးဒွေး(မင်းကုန်း)၊ သူကြီးဦးဒူးညို(လေ့ကူး)၊ အင်စပိတ်တော်ဦးလူနိုင်၊ ဦးကွန်း(ဆူးလေကုန်း)၊ ဦးရွှေရုံး(ညောင်တပင်)၊ ဦးလူနီ၊ အမိန့်တော်ရဦးကျော့(ကတို့မြောက်)၊ ဦးတေနောင်–စသောလူကြီးများပါဝင်ကြသည်။ ဆွမ်းကွမ်းဝေယျာဝစ္စဆောင်ရွက်ပေးကြသော အမေအို၊ အမေရုံစသော ဒကာမကြီးများလည်းရှိကြသေး၏။

ထိုဒကာ,ဒကာမကြီးတို့သည် လယ်တီတောရသို့ ဥပုသ်စောင့်ရန်လာကြပုံမှာ အဖိတ်နေ့ကပင်ကြို၍ရောက်ကြပြီး ပကတိစောင့်မြဲဖြစ်သော ရှစ်ရက်၊ ဆယ့်ငါးရက်စသောဥပုသ်တို့ကို စောင့်ကြရသည်။ ဥပုသ်နေ့တွင် ဆက်လက်၍ ဥပုသ်သီတင်းစောင့်ကြပြန်ပါသည်။ ဥပုသ်နေ့ပြီးသည့် နောက်တစ်နေ့တွင်ပါဆက်၍ အပိုရက်ဥပုသ်စောင့်ကြသည်။ အစုစုသုံးရက် ဥပုသ်စောင့်ကြခြင်းဖြစ်သည်။ ဥပုသ်သည်များရောက်လာကြသော အဖိတ်နေ့ညတွင် ဘုန်းတော်ကြီးက မန်ကျည်းပင်ကြီးအောက် စကြံ့တဲကျောင်းတွင်းမှနေ၍ တရားဟောကြားတော်မူလေ့ရှိ၏။ ဥပုသ်သည်များက ထိုတဲကျောင်းအနီးရှိ သစ်ပင်ဝါးပင်ရိပ်တို့မှနေ၍ နာယူကြရသည်။ ညဘက်ဖြစ်၍ လသာမှန်အိမ်ကလေးတွင် မီးထွန်းညှိထားသည်။ ထိုသို့တရားနာယူရာ၌ ဘုန်းတော်ကြီးအနီးတွင် သံဃာပရိသတ်ကနေရ၍ ထိုအပမှာ လူဒကာပရိသတ်၊ ထိုနောက် ခပ်လှမ်းလှမ်းမှာ ဒကာမတို့က ဝပ်၍နာယူကြရသည်။

ဘုန်းတော်ကြီး၏တရားပွဲကိုနာယူလိုက်ဖူးသောပုဂ္ဂိုလ်တို့၏ပြောပြချက်အရ ဘုန်းတော်ကြီး၏ အသံသည် အလွန်လေးနက်ဩဇာရှိ၍ ခပ်ဝေးဝေးသို့ပင်ပျံ့နှံ့ကြောင်း။ လယ်တီကျောင်းဝင်းအတွင်း (ယခုခေတ်–စကြံကျောင်း)မှဟောတော်မူနေသော ဘုန်းတော်ကြီး၏အသံတော်ကို ခပ်လှမ်းလှမ်း (ယခုခေတ်–လယ်တီတိုက်အပြင် မီးရထားသံလမ်းနားက)ပင်ကြားရကြောင်း ဆိုစမှတ်ရှိ၏။*၁ ဘုန်းတော်ကြီးသည် တရားဟောရာ၌ တရားနာခံ,တရားထောက်ထားပြီး အမေးအဖြေပြုကာ ဟောတော်မူလေ့ရှိသည်။

ဘုန်းတော်ကြီးသည် မိမိထံချဉ်းကပ်လာသောဒကာများကို ညှိခံ၍စကားပြောသော အလေ့မရှိ၊ လာရင်းကိစ္စကို တိုတိုပြောပြီးပြန်စေသည်။ ဒကာမများကိုမူကား အနီးသို့လာခြင်းကိုပင် မလိုလားပေ။ အဝေးမှနေ၍သာ ဖူးစေသည်။ စာချချိန်၊ တရားဘာဝနာပွားများချိန်၌ မည်သည့် ဒကာ,ဒကာမကိုမျှ မလာရန်တားမြစ်ထားသည်။ ဒကာတို့ကိုခေါ်ဝေါ်ရာတွင်လည်း 'ဦး,မောင်' စသည်ဖြင့် ရှေ့ကထည့်ခေါ်လေ့မရှိဘဲ 'ဒအို,တော' စသည်ဖြင့် 'ဒ'ကိုရှေ့ကထား၍သာ ခေါ်လေ့ရှိသည်။ လောကွတ်ချော်၍ မြှောက်ပင့်ပြောသည်ကိုလည်းမကြိုက်ပေ။ ပမာအားဖြင့်– မြို့ရွာ၌ထင်ရှားသော ဒကာတစ်ဦးဦးလာ၍ဖူးသည်ကို အနီးရှိလူများက 'ဥပမာ–ဝန်ထောက်မင်း ဦး…မည်သူပါဘုရား' စသည် ထိုပုဂ္ဂိုလ်၏ဝိသေသကိုထည့်ပြီး ပြောဆိုလျှောက်ထားလျှင် ဘုန်းတော်ကြီးက 'ဟေ့–တို့မသိဘူး'ဟု တင်းတင်းမာမာမိန့်ကြားကာ ဆက်၍မလျှောက်ထား စေရန် သတိပေးဟန့်တားတော်မူလေ့ရှိသည်။ ဣန္ဒြေကြီးကြီးထား၍ မျက်နှာတော်ထန်သော နဂိုအသွင်တော်ကြောင့် ဒကာတို့ ဘုန်းတော်ကြီး၏အနီးသို့ တော်ရုံမကပ်ဝံ့ကြ။ အလွန်လည်း ကြောက်ရွံ့ရိုသေကြသည်။

လယ်တီကျောင်းမြေကိုလှူဒါန်းခြင်း

လယ်တီတောကြီးသည် မုံရွာမြို့အပြင် ထွန်ယက်စိုက်ပျိုး၍မရသော တောမြေရိုင်းကြီး ဖြစ်သည် မှန်သော်လည်း ထိုတောရိုင်းမြေ၏ပိုင်ရှင်ကား မုံရွာမြို့သူကြီးဟောင်းဦးအိုဖြစ်သည်။*၂ သူကြီးဦးအိုတို့မိသားစုသည် အစဉ်အဆက် သူကြီးမျိုးရိုးဖြစ်သည့်အလျောက် မုံရွာမြို့ပေါ်တွင် မြေများစွာကို ပိုင်ဆိုင်ကြလေသည်။ တစ်ခုသောဥပုသ်နေ့တွင် သူကြီးဟောင်းဦးအိုနှင့် ကျောင်း ဒကာကြီးဦးကြွယ်တို့ ဘုန်းတော်ကြီးထံမှတရားနာယူကြပြီး သစ်တစ်ပင်အောက်၌ အတူတူ ပုတီးစိတ်ရင်း စကားလက်ဆုံကျရာ သူကြီးဟောင်းဦးအိုက 'လယ်တီတောရမှာ ကျောင်း

*၁ ဤအချက်မှာ ဆဋ္ဌလယ်တီဆရာတော်ကြီးအရှင်ဣန္ဒကာ၏ (၂၄–၄–၁၉၇၆)နေ့ မိန့်ဆိုတော်မူချက်ဖြစ်သည်။

*၂ မုံရွာမြို့သူကြီးစာရင်းတွင် ဗဒုံမင်းလက်ထက် သက္ကရာဇ်–၁၁၆၄(အေဒီ–၁၈၀၂)ခုနှစ် လယ်ဇင်ရွာစစ်တမ်းအရ သူကြီးအို အုပ်ချုပ်ကြောင်းသိရသည်။ မင်းတုန်းမင်းလက်ထက် သက္ကရာဇ်–၁၂၃၀(အေဒီ–၁၈၆၈)အုပ်ချုပ်သော သူကြီးသည်လည်း ငအို(သောအို)ပင်ဖြစ်သည်။ ထိုငအိုသည် ကစ်ဦးတည်း ဟုတ်မဟုတ်မတူပေ။ ဝင်းအောင်၏ သမိုင်းထဲကမုံရွာ(ဆောင်းပါး)၊ (စာမျက်နှာ–၂၀)။ မင်းတုန်းမင်းလက်ထက်က သူကြီးသောအိုသည် သက်တမ်းရှည်ပြီး လယ်တီဆရာတော်ကြီးကိုပင် ကောင်းစွာသိမီသူဖြစ်ကြောင်း သိရသည်။ ရတနာပုံဆရာဦးစိုးဂေါင်၏ မုံရွာသမိုင်း(လက်ရေးမူ)မှ။

အဆောက်အအုံဆို၍ ဘာမျှမရှိ၊ သံဃာတော်များသီတင်းသုံးနေဖို့ ကျောင်းကိုထားပါဦး၊ ဘုရားဝတ်ပြုရာဘုရားကျောင်းပင် ကောင်းကောင်းမရှိ'ဟု ပြောလေသည်။

ထိုအခါ ကျောင်းဒကာကြီး ဦးကြွယ်က 'ဒါနဲ့ဗျာ–ဒီလယ်တီတောကြီးတည်ရှိတဲ့မြေဟာ သူကြီးမင်းရဲ့မြေပိုင်မဟုတ်ပါလားခင်ဗျာ၊ သူကြီးမင်းက ဒီမြေကိုလှူလိုက်လျှင် နောင်အခါ ကျောင်းကန်ဇရပ်စသည် ဆောက်သူတွေပေါ်လာပါလိမ့်မယ်၊ ကျွန်တော်လည်း ဘုရားဝတ်ပြုရန် ကျောင်းတစ်ဆောင်ဆောက်လှူမယ်ဗျာ'ဟုပြောကြားလေရာ သူကြီးဟောင်းဦးအိုမှာ သဒ္ဓါတရားဖြစ်ပွားပြီး လယ်တီတောရကြီးမြေအားလုံးကို လယ်တီဘုန်းတော်ကြီးအား ငဲ့ကွက်ခြင်းမရှိ စွန့်လှူခဲ့ပါသည်။

ထိုစဉ်က သူကြီးဦးအိုလှူခဲ့သောမြေမှာ တောင်သို့လားသော် ယခု စိတ္တသုခသီလရှင်တိုက်နေရာမြေအထိ၊ မြောက်သို့လားသော် အစိုးရရေစက်ဝန်းအထိ၊ အရှေ့သို့လားသော် ယခု အရှေ့လယ်တီနေရာအထိ၊ အနောက်သို့လားသော် မီးရထားသံလမ်းအထိဖြစ်ပါသည်။*၁

## တလုံးတောရနှင့် လယ်တီတောရ

လယ်တီတောရ၏အရှေ့မြောက် လေးဖာလုံခန့်အကွာတွင် တလုံးတောရအမည်ရှိသော တောရကျောင်းတစ်ကျောင်းတည်ရှိပြီးလျှင်၊ ထိုတောရကျောင်းဘုန်းကြီးဦးဝါယာမိန္ဒကို ရောက်ခါးရွာသားများက ကိုးကွယ်ကြသည်။ တလုံးတောရမှာ တောရကျောင်းဆိုသော်လည်း ကျောင်းကန်ဇရပ် သိမ်စသည်ဖြင့်ပြည့်စုံသော တောရကျောင်းတိုက်မျိုးဖြစ်သည်။ တလုံးတောရဘုန်းကြီး ဦးဝါယာမိန္ဒသည် သဘောသကာယဖြူစင်၍ စေတနာလောကွတ်ကြီးမားတော်မူ၏။ မိမိအောက်ဝါငယ်သူ လယ်တီဘုန်းတော်ကြီးအရှင်ဉာဏကို ညီငယ်ပမာ ချစ်ခင်ရင်းနှီး၏။ ဘုန်းတော်ကြီး အရှင်ဉာဏ၏ ပရိယတ်ဂုဏ်ပဋိပတ်ဂုဏ်တို့ကိုလည်းလေးစား၏။ သို့ဖြစ်၍ လယ်တီတောရဘက်သို့ တလုံးဘုန်းတော်ကြီးအရှင်ဝါယာမိန္ဒ မကြာမကြာကြွရောက်လာပြီးလျှင် လယ်တီတောရ သံဃာများ၏ လိုအပ်ရာရာတို့ကို ဖြည့်ဆည်းစောင့်ရှောက်ခြင်းပြုတော်မူခဲ့ပါသည်။

လယ်တီသံဃာများကလည်း တလုံးတောရဘုန်းတော်ကြီးကို လေးစားကြောက်ရွံ့ကြ၏။ တလုံးဘုန်းတော်ကြီး၏ဩဝါဒကိုလည်း ရိုသေစွာနာယူကြ၏။ ထိုအခါက လယ်တီတောရ၌ သိမ်မရှိသေးသည့်အတွက် လယ်တီသံဃာများသည် သံဃာကိစ္စကံကြီးကံငယ်ဆောင်ရန်ရှိပါက တလုံးတောရသိမ်သို့သွားရောက်ကာ ပြုဖွယ်ကိစ္စတို့ကိုဆောင်ရွက်ကြရသည်။ သောက်သုံးရေကိုလည်း တလုံးတောရရှိရေကန်မှ ခပ်ယူသုံးစွဲကြသည်။

## သန်းရှာ၍ဒဏ်ထမ်းရ

တစ်ခါသော် လယ်တီဘုန်းတော်ကြီးအရှင်ဉာဏ၏သင်္ကန်း၌ သန်းမကြီးများအိမ်ဖွဲ့နေပြီး ဘုန်းတော်ကြီးကိုလည်း နှိပ်စက်နေဟန်ရှိလေသည်။ ဘုန်းတော်ကြီးက ထိုသန်းတို့နှိပ်စက်သော

---

*၁ ကျောင်းဒကာကြီးဦးကြွယ်၏မြေး မန္တလေးမြို့၊ ယူနီဗာဆယ်မုန့်တိုက်ပိုင်ရှင်ဒေါ်တင်ဦး ၁၃၄၆–ခုနှစ်၊ နတ်တော်လဆန်း ၁၂ (အေဒီ–၄၊ ဒီဇင်ဘာလ၊ ၁၉၈၄) လယ်တီတိုက်သံဃာများအား လျှောက်ထားလွှာမှဖြစ်သည်။

ဒဏ်ကို ခပ်မဆိတ်သည်းခံ၍နေတော်မူခဲ့ပါသည်။ ထိုအကြောင်းကို လယ်တီတောရသံဃာအချို့ သိကြသောအခါ ဘုန်းတော်ကြီး၏သက်န်းကိုရှင်းလင်းလျှော်ဖွပ်ရန် ကိုရင်အာဒိစ္စလောင်းလျာ ကျောင်းသားနှင့်အချို့ကိုတာဝန်ပေးသည်၊ ကျောင်းသားများကလည်း ဘုန်းတော်ကြီး၏သင်္ကန်းကြီး ကိုယူ၍ လျှော်ဖွပ်သန့်စင်ကြလေသည်။ ဤသို့ သင်္ကန်းကိုလျှော်ဖွပ်ရှင်းလင်းကြောင်း ဘုန်းတော်ကြီး သိတော်မူလျှင် သင်္ကန်းလျှော်ဖွပ်ရန်စေခိုင်းသူသံဃာတို့နှင့် လျှော်ဖွပ်ကြသော ကျောင်းသားတို့ကိုခေါ်ယူ၍ ဆိုမြည်တော်မူကာ ရေဒဏ်ထမ်းရန်အမိန့်ချလိုက်လေသည်။

ဒဏ်ထမ်းခံသူများသည် တလုံးတောရရှိ ရေကန်သို့ ရေဒဏ်ထမ်းရန်သွားကြရ၏။ အချိန်အခါမဟုတ်ဘဲ လယ်တီတောရမှကိုယ်တော်ကလေးများ ရေဒဏ်ထမ်းလာကြသည်ကို တလုံးဘုန်းတော်ကြီးအရှင်ဝါယာမိန္ဒ သိတော်မူလျှင် အကြောင်းစုံမေးမြန်းစစ်ဆေးပြီး 'ကဲ- မောင်ပဉ္စင်းတို့ ကိုရင်တို့ ကျောင်းသားတို့-မင်းတို့ကျောင်း မင်းတို့ပြန်ကြ၊ ငါလိုက်လာခဲ့မယ်' ဟုမိန့်ဆိုပြီး လယ်တီတောရသို့ကြွလာတော်မူသည်။

လယ်တီတောရသို့ရောက်လျှင် တလုံးဘုန်းတော်ကြီးက အရှင်ဉာဏကို 'ဘယ့်နှယ့်ဗျာ၊ သင်္ကန်းကိုက်ကိုက် လောက်ကိုက်ကိုက် ကြည့်နေနိုင်ကြလျှင် လုပ်ပေးကြပါ့မလား၊ မကြည့်ရက်လို့ လုပ်ပေးတာကို ဒဏ်ထမ်းခိုင်းရတယ်လို့-'အစချီကာ ခပ်ကြာကြာခပ်နာနာ မိန့်ဆိုတော်မူလေသည်။ လယ်တီဘုန်းတော်ကြီးသည် တလုံးတောရဘုန်းတော်ကြီး မိန့်ဆိုတော်မူသမျှ ထေရ်ကြီးဝါကြီးမိန့်ကြားသည်ကို နာယူနေသော ရှင်သာမဏေလေးအလား အလွန်ရိုသေလေးမြတ် ငြိမ်သက်စွာ နာယူတော်မူခဲ့၏။ တစ်ခွန်းမျှ တုံ့ပြန်မိန့်ကြားခြင်းမပြုခဲ့ပေ။ တလုံးဘုန်းတော်ကြီး ပြန်ကြွတော်မူသောအခါမှ တပည့်များအား 'သင်္ကန်းရှိတာ ငါအသိသာပေါ့ကွယ်၊ ထိုသင်္ကန်းများရှိမှ ငါမအိပ်နိုင်မှာ၊ ငါမအိပ်နိုင်မှ တရားဘာဝနာအားထုတ်နိုင်မှာကွယ့်'ဟု မိန့်ဆိုတော်မူပါသည်။*၁

**စိုင်ပြင်ရွာသူကြီးဦးဆိုင်းသို့ မေတ္တာစာပေးပို့ခြင်း**

လယ်တီဘုန်းတော်ကြီးသည် ထိုနှစ်အတွင်း မိမိဇာတိစိုင်ပြင်ရွာသို့ အကြောင်းကိစ္စတစ်ခုနှင့်ကြွရာတွင် ရွာအရောက်မှာပင် ကျောင်းမတိုက်ဒကာစိုင်ပြင်ရွာသူကြီးဦးဆိုင်း အရက်သေစာသောက်စားနေသောသတင်းကို ကြားသိတော်မူလေသည်။ ထိုသတင်းကိုကြားရသောအခါ ဘုန်းတော်ကြီးက- 'ဩ-တို့ကျောင်းဒကာသူကြီးသည် နဂိုကအလွန်ဖြောင့်မတ်၍ ပဥ္စသီလကို ခါးဝတ်ပုဆိုးကဲ့သို့မြဲမြံကာ လူတော်လူသမတ်ကြီးဖြစ်ပါလျက် အသက်အရွယ်ကြီးရင့်ကာမှ သောက်စားမူးယစ်သည်မှာ ကျောင်းဒကာဟူသောဂုဏ်နှင့်မလျော်ပါတကား'ဟူ၍ နှလုံးသွင်းပြီး သူကြီးကိုသတိပေးရန်အလို့ငှာ ရွာတွင်းသို့ကြွသွားသော်လည်း ဒကာဦးဆိုင်းနှင့် မတွေ့ခဲ့ရ။ ဒကာဦးဆိုင်းကလည်း ထိုရက်အတွင်း ရပ်ရွာကိစ္စ သာမှုနာမှုကိစ္စတို့နှင့်အလုပ်ရှုပ်နေပြီး

---

*၁ ထိုစဉ်က ရေဒဏ်အထမ်းခံရာတွင်ပါဝင်ခဲ့သော ကိုရင်အာဒိစ္စလောင်းလျာ (နောင်အခါ- ဦးအောင်လှ၊ မုံရွာ ဆုတောင်းပြည့်ဘုရားကြီးဂေါပကအဖွဲ့ဥက္ကဋ္ဌ)ပြောပြ၍ သိရသည်။

ဘုန်းတော်ကြီးကလည်း စိုင်ပြင်ရွာတွင်ရက်ကြာကြာမနေနိုင်ဘဲ လေးငါးရက်သာနေနိုင်ခဲ့သဖြင့် ဒကာကြီးဦးဆိုင်းနှင့်မတွေ့ရဘဲ မုံရွာသို့ပြန်ခဲ့ရလေသည်။

လယ်တီဘုန်းတော်ကြီး မုံရွာသို့ပြန်ကြွခဲ့ပြီးနောက် သူကြီးဦးဆိုင်း၏သေရေးကိစ္စကိုသတိရ ပြန်ပြီး အဝေးမှပင် စာရေး၍သတိပေးမှသင့်တော့မည်ဟု အကြံအစည်ဖြစ်တော်မူခဲ့၏။ သို့နှင့် သေရက်မသောက်သင့်ပုံမေတ္တာစာတစ်ပုဒ်ကို ရေးသားတော်မူခဲ့ပါသည်။ ရေးပြီးလျှင် စိုင်ပြင်ရွာသို့ လူကြုံကောင်းပေါ်ပေါက်လာသောအခါ ထိုမေတ္တာစာကို ဒကာသူကြီးထံသို့ပေးပို့တော်မူခဲ့ပါသည်။*၁

သက္ကရာဇ်-၁၂၄၇ (အေဒီ-၁၈၈၅)ခုနှစ် သီပေါမင်းပါတော်မူစအခါက နွားသားရှောင်ရေး မေတ္တာစာဖြင့် နာမည်ကျော်ခဲ့သော ဘုန်းတော်ကြီး၏ကလောင်အစွမ်းသည် နှစ်အတန်ကြာ ငုပ်လျှိုးနေရာမှ စိုင်ပြင်ရွာသူကြီးဦးဆိုင်းအား သေရည်မသောက်ရန်တားမြစ်သော ဤမေတ္တာစာတွင် တစ်ဖန်ပေါ်ထွက်လာရပြန်လေသည်။

အထူးသဖြင့် နွားမေတ္တာစာရေးစဉ်အခါက မေတ္တာစာဟုဆိုသော်လည်း မေတ္တာစာရေးရိုးရေးဟန်ထက် မန္တလေးခေတ်ရတနာပုံသတင်းစာပါ ဘိုးဝဇီရ၏သတင်းစာဆောင်းပါးရေးဟန်*၂ ဘက်ယိုင်နေကြောင်းတွေ့ခဲ့ရပြီး၊ ယခု စိုင်ပြင်သေရည်မေတ္တာစာတွင်ကား ရေးရိုးမေတ္တာစာရေးဟန်အတိုင်း စာပေးသူအပိုင်း၊ စာခံသူအပိုင်းနှင့် ပြောကြားလိုသောစကားအပိုင်း၊ မေတ္တာကိုဖွဲ့သောအပိုင်းစသည် 'မေတ္တာစာလေးတန် အင်္ဂါလေးတန်'*၃ တို့ကို ပေါ်ပေါ်လွင်လွင် ရေးဖွဲ့ထားလေသည်။

စိုင်ပြင်သေရည်မေတ္တာစာ၏အချီး၌ 'လှေကူး-မုံရွာ၊ အရညဝါသီ၊ လယ်တီဆရာ'ဟူသော စကားရပ်ဖြင့် မေတ္တာစာပေးသူ လယ်တီဘုန်းတော်ကြီးသည် မိမိ၏တောရဘုန်းတော်ကြီးဘဝ အရညဝါသီဖြစ်ပုံကိုပေါ်လွင်စေခဲ့သည်။ နွားမေတ္တာစာရေးစဉ်က ရေးသူအပိုင်းကို ဖော်ပြခြင်းမရှိခဲ့ပေ။ စာခံသူအပိုင်းတွင်လည်း စိုင်ပြင်ရွာသူကြီးဦးဆိုင်းကိုဖွဲ့ရာ၌ 'ကျောင်းမတိုက်ကျောင်းဒကာ စိုင်ပြင်ရွာသူကြီးဦးဆိုင်း'ဟူ၍ ကျောင်းဒကာအဖြစ်ကိုသာမက 'အနွယ်အရိုး ဘေးနှင့်ဘိုးက အမျိုးမှန်သည့် အဘိုးတန်ကျောင်းဒကာ လူသမာသူတော်စင်'ဟူ၍ အမျိုးကောင်းအနွယ်ကောင်းမှ ဆင်းသက်ခဲ့ပုံကိုလည်း ထုတ်ဖော်ရေးဖွဲ့ခဲ့ပါသည်။ ထို့ပြင် စာခံသူကျောင်းဒကာဦးဆိုင်းသည် 'တို့ကျောင်းဒကာ နဂိုရင်းက မဖျင်းဘူးပါပဲနှင့်'ဟူသောစကားရပ်ဖြင့် နဂိုမူလက အကျင့်စာရိတ္တကောင်း မွန်မြတ်သန့်ရှင်းသူဖြစ်ခဲ့ကြောင်းကို အသိပေးထားပြန်ပါသည်။

---

*၁ ထိုမေတ္တာစာကို 'စိုင်ပြင်သေရည်သေရက်မေတ္တာစာ'ဟုခေါ်သည်။ လယ်တီဆရာတော်ကြီး၏ ဂန္ထိရကဗျာကျမ်း။ ၁၉၅၆-ခုနှစ်။ (စာမျက်နှာ-၁၄)တွင်ရှုပါ။

*၂ ဘိုးဝဇီရ၏လက်ရာ သတင်းဆောင်းပါးများကို မဟာဆွေ၏ ဘိုးဝဇီရ။ ဒေါ်ကြည်ကြည်စာပေ၊ ရန်ကုန်မြို့။ ၁၉၆၇-ခုနှစ်။ (စာမျက်နှာ-၉၉၊ ၁၁၁၊ ၁၅၆၊ ၁၅၈) နှင့် စန်းယုအောင်၏ ဘိုးဝဇီရစာပေ။ ၁၉၅၃-ခုနှစ်။ (စာမျက်နှာ ၄၄-၆၁)တို့တွင် ကြည့်ပါ။

*၃ ဦးလုဘောဝင်း၏ဦးပုညမေတ္တာစာဂဏ္ဌိကျမ်း။ ပြည်ကြီးမဏ္ဍိုင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၃၃-ခုနှစ်။ (စာမျက်နှာ-တ)။

စိုင်ပြင်သေရည်မေတ္တာစာတွင် မေတ္တာကိုအရင်းခံကာ ရေးသားပေးပို့သည့်သဘော ပေါ်လွင်အောင်ရေးဖွဲ့ထားသော 'ခုရောနောင်ပါသံသရာ၌ နှစ်ဖြာလုံးကောင်းစေဘို့ လမ်းကြောင်း စင်းစင်း မရှုတ်မချဟုတ်သမျှ ထုတ်ပြကာလင်းလိုက်မည် စဉ်းစား၍နာပါ' စသောစကားရပ်၊ 'ပရိသတ်မပါ နှစ်ကိုယ်ကောင်းတွေ့ခါမှ သာယာချောမော အဆိုးအကောင်း ကျိုးအကြောင်း ကောင်းကောင်းကြီးပြောရလျှင် ချောပေမည်ကေန်' ဟူသော အကျိုးအကြောင်းပြစကား၊ 'မနော ကျောက်မြတ်ကယ် ရောက်တတ်ရာညွှန်ညစ်၌ ကျွံနစ်ခါမနေကောင်းပြီဟု အကြောင်းကို မြော်ခေါ်၍ တော်လျော်ရုံသတိပေးလိုက်သည် အသိရေးမနှောင်းစေနှင့် ကျောင်းဒကာ' ဟူသော တိုက်တွန်းချက်-စသည်တို့ဖြင့် ဖွဲ့နွဲ့ရေးသားထားပါသည်။

အရက်သေစာသောက်သုံးခြင်းအကြောင်းနှင့်စပ်၍ ရေးစာဆိုတို့လည်း 'အရက်သေရည် သောက်ခြင်းသည်မကောင်း၊ မျက်မှောက်မျက်ကွယ် နှစ်သွယ်စလုံး၌ အကျိုးမပေး' ဟူသော သဘောကို လောကုတ်လောကီ နှစ်လီသောရှုထောင့်တို့မှ ရေးခဲ့ကြပြီးဖြစ်ပါသည်။ အထူးအားဖြင့် ရှင်ဥက္ကံသမာလာသည် ယစ်မျိုးရှောင်ရန် တောပုမြောက်ကျောင်းဆရာ၏ ကျောင်းဒကာ လက်ျာကျော်စွာနော်ရထာအမတ်ကိုပေးသောမေတ္တာစာ*၁ တွင် ရေးထားပုံကို ဤမေတ္တာစာနှင့် ယှဉ်၍ဖတ်ရှုပါမူကား ဘုန်းတော်ကြီးအရှင်ဉာဏ၏ စိုင်ပြင်ပေးမေတ္တာစာပါ စကားအသွားအလာ ဆန်းကြယ်နှယ်၍ ဖွဲ့စပ်ပုံပြေပြစ်ကောင်းမွန်ကာ အသိခက်ခဲသောစကားပဟေဠိတို့ကို မသုံးစွဲသည့် အတွက် ရှင်းလင်းသိလွယ်ကြောင်းတွေ့ရသည်။

စိုင်ပြင်သေရည်မေတ္တာစာတွင်-

- အရိုင်းတွင် သေရက်၊ အခက်တွင် ပိဋကတ်၊ အမြတ်တွင် နိဗ္ဗာန်၊ အမြန်တွင် သိန္ဓော၊
- လူ့ဗာလကလည်း တက်တက်မိုက်၊ ခုကာလကလည်း သက်သက်ဆိုက်၊ ဓာတ်ခိုက် နှင့် နတ်ကြိုက်၊ ဆိုက်တိုက်သည့်အခါ၊
- အမျိုးနှင့် ချင့်ချိန်၊ ဂုဏ်သိရ်နှင့် ချင့်နွှယ်၊ အရွယ်နှင့် ချင့်စား၊ တရားနှင့် ချင့်မြော်၊
- အသိဉာဏ်အကြွယ်သားနှင့်၊ အပါယ်လားမခံပါလင့်-

ဟူသော စကားပုံအဖွဲ့များကိုလည်းတွေ့ရသည်။ ဤစကားပုံဆိုရိုးတို့သည် ကြားရသူတိုင်း နှုတ်ဖျား၌စွဲလောက်သော စကားပုံဆိုရိုးများပင်ဖြစ်တော့သည်။

ထို့ပြင် မေတ္တာစာရေးကြရာတွင် သတ္တဝါအများချမ်းသာစေလိုသောမနောပဏီဓိဖြင့် ရေးသား ကြခြင်းဖြစ်ရာ စိုင်ပြင်သေရည်မေတ္တာစာသည်ကား စိုင်ပြင်ရွာသူကြီးဦးဆိုင်းကို တိုက်ရိုက်ရေးသား သော ဝိသေသမေတ္တာစာမျိုးဖြစ်သော်လည်း ဤမေတ္တာစာကိုဖတ်ရှုကြရသော အခြားပုဂ္ဂိုလ် တို့မှာ အသိတရားရကြ၍ သေရည်ဟူသောနွံတွင်း ဆင်းသက်ခြင်းဘေးဆိုးမှ လွတ်ကင်း ချမ်းသာရကြမည်မှာ အမှန်ဖြစ်ချေသည်။

---

*၁ ပုဂံဝန်ထောက်ဦးတင် တည်းဖြတ်သော အသျှင်ဥက္ကံသမာလာမေတ္တာစာ။ မြန်မာနိုင်ငံသုတေသနအသင်း၊ ရန်ကုန်မြို့၊ ၁၉၃၃-ခုနှစ်။ (စာမျက်နှာ-၁)

ဖြစ်မဆုံးနိုင်ဘု ခေတ်သုံးနှောင်ဖွဲ

လယ်တီဘုန်းတော်ကြီးအရှင်ဉာဏသည် နှစ်များစွာကပင် လူသူကင်းရာတောတောင် အရပ်သို့ ခိုဝင်လိုသောအကြံအစည်ရှိခဲ့သော်လည်း အတွယ်အတာအမျိုးမျိုးကြောင့်၊ ထိုအကြံ အထမမြောက်နိုင်ဘဲ သက္ကရာဇ်–၁၂၄၈(အေဒီ–၁၈၈၆)ခုနှစ်သို့ရောက်ခါမှ လယ်တီတောကြီး အတွင်းသို့ခိုဝင်ခွင့်ရသဖြင့် မိမိ၏စိတ်အကြံထမြောက်တော်မူခဲ့လေသည်။

'စိန္တိတမ္ပိ ဝိနဿတိ၊ ကြံတိုင်းလည်းမဖြစ်'ဟူသောရှေးစကားအတိုင်း တောရပ်ခိုဝင်၍ ရက်မကြာမီမှာပင် ကျောင်းဒကာများတောထဲလိုက်လာပြီး ကျောင်းဆောက်လှူ၊ တပည့်ရဟန်း များက တောထဲလိုက်လာ၍ စာဝါတောင်း၊ ထို့နောက် တောရအတွင်းအတူလာ၍နေကြခြင်း တို့ကြောင့် အရှင်မြတ်၏ကမ္မဋ္ဌာန်းအလုပ်ခွင်သည် တပည့်,ဒကာတည်းဟူသော ပရိသတ် အန္တရာယ်ကဖျက်ဆီးလေ၍ တောရခိုဝင်ခြင်းကိစ္စမှာ မအောင်မမြင်ဖြစ်ခဲ့ရသည်။

ဤသို့ လယ်တီဘုန်းတော်ကြီးတောရခိုဝင်မှုကိစ္စပျက်ပြားရခြင်းကို အခြားပုဂ္ဂိုလ်များဘက်က အမှုမဲ့အမှတ်မဲ့ဖြစ်နေသော်လည်း ဘုန်းတော်ကြီးအရှင်ဉာဏကမူ မေ့ပျောက်နိုင်လိမ့်မည်မဟုတ် ပေ။ ဤသို့ မိမိက ကျောင်းအပေါ်, ကျောင်းဒကာ, တပည့်အသိုင်းအဝန်းတို့၏သံယောဇဉ် အနှောင်အတဲကိုပယ်ဖြတ်စွန့်လွှတ်လိုက်လင့်ကစား မိမိအပေါ်တွယ်တာရစ်နွယ်နေသော ထိုကျောင်းဒကာ,ထိုတပည့်ဆိုသောသံယောဇဉ်ကပြတ်မလာဘဲ တတွယ်တွယ်တဲနေသေးသော ကြောင့် ထင်သလောက်အရာမမြောက် မှန်းသလောက်တိုးမပေါက်ဖြစ်ခဲ့ရသော မိမိအဖြစ်အင်ကို ကျောင်းဒကာကြီးတစ်ဦး*၁ အား 'ဖြစ်မဆုံးနိုင်ဘု'အစချီသော လေးချိုးတစ်ပုဒ်ကိုရေး၍ လှစ်ဟ တော်မူခဲ့လေသည်။*၂

အဆိုပါ 'ဖြစ်မဆုံးနိုင်ဘု'လေးချိုးကို စာဆိုရှင်ဘုန်းတော်ကြီးအရှင်ဉာဏသည် စိတ်ကူး ဉာဏ်သက်သက်ဖြင့်ရေးဖွဲ့ခြင်းမဟုတ်ဘဲ မိမိ၏အတွေ့ကြုံဒိဋ္ဌလောကကိုအခြေခံ၍ ရေးဖွဲ့ခြင်း ဖြစ်လေရာ ထိုလေးချိုးကိုဖတ်ရှုရသူတိုင်း ပြောင်မြောက်သောရသစာပေအဖွဲ့တစ်ရပ်ဖြစ်ကြောင်း လေ့လာတွေ့သိနိုင်ပါသည်။

ဤ'ဖြစ်မဆုံးနိုင်ဘု'အစချီသောလေးချိုးကိုဖတ်ရသူတို့မှာ ဗုဒ္ဓုပ္ပါဒဒုလ္လဘဟု ဘုရားပွင့်တော် မူသောကာလနှင့် ကြုံကြိုက်ရသောခေတ်ကောင်းအခါကောင်းကို လက်လွှတ်အဆုံးရှုံးမခံကြဘဲ လောကီအမှုတာဝန်များကိုလျှော့ချပစ်ပယ်ကြ၍ သမထဘာဝနာ, ဝိပဿနာဘာဝနာအားထုတ်ခြင်း ဆိုင်ရာအလုပ်ကိုသာ မိမိအတွက်အနှစ်သာရရှိသောအလုပ်ဟူ၍နှလုံးသွင်းကြပြီး အချိန်အခွင့်

*၁ ထိုကျောင်းဒကာကြီးအမည်ကို လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးစီစဉ်သော ၁၉၁၁–ခုနှစ်၊ ရွှေကြုံးကုမ္ပဏီရိုက် ဂမ္ဘီရ ကဗျာကျမ်း(ပထမတွဲ)နှင့် ဒဂုန်ဦးလှဘေစီစဉ်သော ၁၉၅၆–ခုနှစ်၊ ရွှေပြည်တန်ပုံနှိပ်တိုက်ရိုက် ဂမ္ဘီရကဗျာကျမ်းတို့တွင် 'ကျောင်းဒကာကြီးဦးကျော်'ဟုဖော်ပြထားသည်။ လယ်တီဝိသောဓေကမူ ၁၉၈၇–ခုနှစ်၊ မြန်မာပြည်စာအုပ်တိုက်ရိုက် ဂမ္ဘီရကဗျာကျမ်း၌ 'ကျောင်းဒကာဦးကျော်အေး'ဟုဖော်ပြထား၏။ ထိုကျောင်းဒကာကြီးအကြောင်းကို ယခုတိုင် စုံစမ်း၍ မရပါ။

*၂ လယ်တီဆရာတော်ကြီး၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၁၅၇)။

ပေးသည့်အခိုက်အခါဝယ် အပူတပြင်းအတင်းလုပ်ကိုင်ကြရန်ဖြစ်ကြောင်း တိုက်တွန်းနှိုးဆော်ထားသည်ကို ဖတ်ရှုကြရပေလိမ့်မည်။

တရားတော်ကိုပူဇော်ပုံ

သက္ကရာဇ် ၁၂၄၈–ခုနှစ်၊ တန်ခူးလပြည့်ကျော် ၇–ရက် (အေဒီ–၁၄၊ ဧပြီလ၊ ၁၈၈၇–ခုနှစ်) သည် နှစ်ဟောင်းလွန်မြောက်၍ သက္ကရာဇ် ၁၂၄၉–နှစ်သစ်သို့ရောက်ရှိကာ နှစ်ကူးအတာတက်ချိန်ဖြစ်သည်။

ထိုအခါ၌ လယ်တီဘုန်းတော်ကြီးသည် လယ်တီတောရအတွင်း၌ရှိနေသော ဘုတ်စာအုပ်*၁ များနှင့် ပေစာထုပ်များအားလုံးကိုစုဝေးပြီး သန့်စင်စေပါသည်။ ပေချပ်များကို တစ်ချပ်ချင်းခွာ၍ ရေနံချေးသုတ် နေရောင်ပြစေသည်။ ပလ္လင်တိုင်*၂ မကောင်းပါက လဲလှယ်စေသည်။ ကျမ်း*၃ များကိုလည်း အသစ်ပြုပြင်၍လှယ်စေသည်။

ပေထုပ်များသန့်စင်ပြီးသောအခါ ပါဠိတော်ဆိုင်ရာပေထုပ်များကို တသီးတသန့်ရွေးချယ်ပြီး ဝိနည်းငါးကျမ်းပေထုပ်၊ သုတ္တန်ဆိုင်ရာ နိကာယ်ငါးရပ်ပါဠိတော်ပေထုပ်၊ အဘိဓမ္မာခုနစ်ကျမ်းပေထုပ်ဟု သုံးစုသုံးပုံခွဲ၍ ဆင်းတုတော်ရုပ်ပွားတော်များနှင့်အတူ မြင့်မြတ်သောနေရာ၌ တည်ထားကာ ပန်း၊ဆီမီး၊တံခွန်စသည်တို့ဖြင့် လေးလေးမြတ်မြတ်ပူဇော်တော်မူပါသည်။

ဤသို့ ပိဋကတ်ပေစာများကို ဓာတ်တော်မွေတော်ရုပ်ပွားဆင်းတုတော်များနှင့်အတူ ဆီမီး ပန်းမာလ် ထီးတံခွန်တို့ဖြင့်အမြတ်တနိုးပူဇော်သက္ကာရပြုသည်ကိုတွေ့မြင်ကြရသောအခါ ရှင်လူအပေါင်းတို့မှာ အထူးအဆန်းဖြစ်နေကြသည်။ ရှေးက ဤသို့ပါဠိတော်ပေစာများ၊ စာအုပ်များမြင့်မြတ်ရာ၌ထား၍ပူဇော်သည်ကို မတွေ့ဖူးကြသောကြောင့်ဖြစ်သည်။ ထိုအခါ လယ်တီဘုန်းတော်ကြီးက 'ဤနိကာယ်ငါးရပ် ပိဋကတ်သုံးပုံပါဠိတော်တို့သည် မြတ်စွာဘုရားကိုယ်တော်တိုင်က ငါဘုရား၏ကိုယ်စား၊ ငါဘုရား၏ကိုယ်ပွားဘုရားပင်ဖြစ်သည်ဟု ဟောတော်မူခဲ့သောကြောင့် ဓာတ်တော်မွေတော် ဆင်းတုတော်များနှင့်အတူ တတန်းတစားတည်းအမြတ်တနိုးပူဇော်ရခြင်းဖြစ်ကြောင်း' ကို အောက်ပါအတိုင်းရှင်းပြတော်မူပါသည်။

> ယော ဝေါ အာနန္ဒ မယာ ဓမ္မော စ ဝိနယော စ ဒေသိတော ပညတ္တော၊
> သော ဝေါ မမစ္စယေန သတ္ထာ။ ။ (ဒီ၊ ၂။ ၁၂၇။)။

---

*၁ 'ပုံနှိပ်စာအုပ်'ကို လယ်တီဆရာတော်ကြီးက 'ဘုတ်စာအုပ်'ဟု အင်္ဂလိပ်အခေါ် (Book) (ဘုတ်)ကိုပါထည့်၍ ရေးသားသုံးနှုန်း ခေါ်ဝေါ်တော်မူလေ့ရှိပါသည်။

*၂ ပလ္လင်တိုင် = ပေလွှာပေရွက်များကို မရွှေ့မလျားတည်ငြိမ်စွာရှိရအောင် အပေါက်နှစ်ပေါက်ဖောက်ကာ ဝါးချောင်းငယ်များကိုထိုးစိုက်၍ ထိန်းထားရသည်။ ထိုအပေါက်များကို 'ပလ္လင်ပေါက်'ဟုခေါ်သည်။ အထိန်းဝါးချောင်းငယ်များကို 'ပလ္လင်တိုင်'ဟုခေါ်သည်။ မင်းသုဝဏ်၏ပေဖူးလွှာ(ဆောင်းပါး)။ ပန်းနှင့်ပင်စည်။ ကမ္ဘာ့ခေတ်စာပေ။ မန္တလေးမြို့၊ ၁၉၆၅–ခုနှစ်။ (စာမျက်နှာ–၉၇)။

*၃ ပေရွက်များညှပ်ထားသောပျဉ်ချပ်။ ဦးဝန်၏တက္ကသိုလ်မြန်မာအဘိဓာန်၊ အပိုင်း–၁။ ၁၉၅၂–ခုနှစ်။ (စာမျက်နှာ–၁၀၁)။

အာနန္ဒ=အာနန္ဒာ။ မယာ=ငါဘုရားသည်၊ ဝေါ=သင်တို့အား၊ ယော ဓမ္မော စ= အကြင်သုတ္တန်တရားတော်, အဘိဓမ္မာတရားတော်ကိုလည်း၊ ဒေသိတော= ဟောတော်မူခဲ့ပြီ။ ယော ဝိနယော စ=အကြင်ဝိနည်းငါးကျမ်း ပညတ်တော်ကိုလည်း၊ ပညတ္တော= ပညတ်တော်မူခဲ့ပြီ။ သော=ထိုသုတ္တန်တရား, အဘိဓမ္မာတရား, ဝိနည်းပညတ်တရားသည်၊ မမစ္စယေန=ငါဘုရားပရိနိဗ္ဗာန်စံလွန်ပြီးသည်မှ နောက်၌၊ ဝေါ=သင်တို့၏၊ သတ္ထာ= ဆုံးမတတ်စွာ ဆရာဘုရားသည်၊ ဘဝိဿတိ= ဖြစ်ရလတ္တံ့။ ။

ဤပါဠိတော်ကိုထောက်မျှော်၍ ယခုရှိကြသော ပိဋကတ်သုံးပုံပါဠိတော်ကြီးသည် ဘုရားကိုယ်စား,ဘုရားကိုယ်ပွား,ဘုရားကိုယ်စားလှယ်ကြီးလည်းဖြစ်သည်ဟု မှတ်ထင်အပ်၏။ ရုပ်ပွားဆင်းတုတော်များကိုပူဇော်သကဲ့သို့ ထိုပါဠိတော်ကြီးများကို ကြည်ညိုကိုးကွယ်ပူဇော်လှူဒါန်းကြသည်ရှိသော် အလွန်ကြီးမြတ်သောအကျိုးကို ပေးနိုင်၏။

လောက၌အချို့သောသူတို့ကား 'တရားမှန်ကို ပါဠိတရားကွယ်ကာ၍နေသည်။ ပါဠိတရားကို တရားအစစ်ထင်မှတ်၍နေကြသည့်အတွက် တရားမှန်ကိုမသိကြ။ တရားမှန်တိမ်မြုပ်နေ၏'ဟုပြောဆိုကြသည်ကို ကြားဘူးရ၏။ မိုက်လေစွ,မှားလေစွ။ အဘယ့်ကြောင့်နည်းဆိုသော် ယခုအခါ ဤပါဠိတော်ကြီးများရှိပေသည့်အတွက် သာသနာတော်ကြီးသည်တည်ရှိနိုင်၏။ ဤပါဠိတော်ကြီးများက အလင်းပြ၍နေပေသည့်အတွက် သီလ,သမာဓိ,ပညာ,ခန္ဓာ,အာယတန,ဓာတ်,သစ္စာ–အစရှိသော သဘောတရားတို့ကို ဗုဒ္ဓဘာသာဝင်လူရှင်အများတို့သိကြရပေကုန်၏။ ဤပါဠိတော်ကြီးများသည် လောက၌ နေ,လများနှင့်တူပေ၏။

သီလ,သမာဓိ,ပညာအစရှိသော သဘာဝဓမ္မများသည် ကမ္ဘာအပြင်၌ရှိကြသော မြေ, ရေ,တော, တောင်, နိုင်ငံ, မြို့ရွာ, အိမ်ရာ, ကျောင်းကန်, လူသူ, ကျွဲနွား သွားလမ်းလာလမ်းအစရှိသော ကမ္ဘာ့အဆောက်အဦနှင့်တူကုန်၏။ သတ္တဝါအပေါင်းတို့သည် နေလတို့ကထွန်းပြပေးသည့်အတွက် ထိုကမ္ဘာ့အဆောက်အဦတို့ကို ပစ္စက္ခဒိဋ္ဌသိမြင်ကြရပေကုန်၏။ နေလမရှိခဲ့သော် မှောင်အတိဖြစ်၍ ထိုအဆောက်အဦတို့ကိုသိမြင်နိုင်ကြမည်မဟုတ်။ ပါဠိတော်ကြီးများ၏အကျိုးကျေးဇူးသည် ဤမျှလောက်ကြီးကျယ်၏။ ဤသို့ဖြစ်ပါလျက် တရားမှန်ကို ပါဠိတရားကွယ်ကာ၍နေသည်ဟုဆိုကြခြင်းသည် ဓမ္မဂိုဏ်းသင့်၏၊ ဓမ္မစိမ်ရေသင့်၏။*[၁] –ဟူ၍ဖြစ်သည်။

---

*[၁] လယ်တီဆရာတော်ကြီး၏ သာသနဝိသောဓနီကျမ်း၊ ပထမတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၂၂)။

## ပိဋကတ်သုံးပုံဘုရားရှိခိုး

လယ်တီဘုန်းတော်ကြီးသည် မြတ်စွာဘုရား၏ခံတွင်းတော်မှထွက်ပေါ်၍လာသော ထိုနိကာယ်ငါးရပ် ပိဋကတ်သုံးပုံပါဠိတော်တို့ကို ဓာတ်တော်မွေတော် ရုပ်ပွားဆင်းတုတော်များနှင့်အတူ ဆီမီး ပန်းမာလ် ထီးတံခွန်ကုက္ကားတို့ဖြင့် အမြတ်တနိုးပူဇော်ကော်မူရာတွင် ညောင်ကန်ဆရာတော် ဦးဗုဓ်၊ [*၁] ပိဋကတ်တော်အုပ်ဦးယမ် [*၂] အစရှိသောရှေးဆရာမြတ်များ၏အစဉ်အလာကို နည်းမှီး အတုယူတော်မူကာ အောက်ဖော်ပြပါ ပိဋကတ်သုံးပုံဘုရားရှိခိုးကြီးကို ကိုယ်တိုင် သီကုံးဖွဲ့သီ ရွတ်ဆိုပူဇော်တော်မူခဲ့ပါသည်။ [*၃]

တီဏိ ပိဋကာနိ ဗုဒ္ဓေန ဘဂဝတာ ဇာနတာ ပဿတာ အရဟတာ သမ္မာသမ္ဗုဒ္ဓေန ဒေသိတာနိ ပညတ္တာနိ။ ။

ကတမာနိ တီဏိ ဝိနယပိဋကံ သုတ္တန္တပိဋကံ အဘိဓမ္မပိဋကံ၊ ဣမာနိ တီဏိ ပိဋကာနိ အာဒိကလျာဏာနိ မဇ္ဈေကလျာဏာနိ ပရိယောသာနကလျာဏာနိ သာတ္ထာနိ သဗျဉ္ဇနာနိ၊ ကေဝလ ပရိပုဏ္ဏသ ပရိသုဒ္ဓသ ဗြဟ္မစရိယဿ ပကာသကာနိ အတ္ထဂမ္ဘီရာနိ ဓမ္မဂမ္ဘီရာနိ ဒေသနာဂမ္ဘီရာနိ ပဋိဝေဓဂမ္ဘီရာနိ၊ သီလက္ခန္ဓဘာဇနာနိ သမာဓိက္ခန္ဓဘာဇနာနိ ပညာက္ခန္ဓဘာဇနာနိ ဝိမုတ္တိခန္ဓဘာဇနာနိ ဝိမုတ္တိဉာဏဒဿနက္ခန္ဓဘာဇနာနိ အဘိညာသံဝတ္တနိကာနိ ပရိညာသံဝတ္တနိကာနိ သမ္ဗောဓသံဝတ္တနိကာနိ ဝိရာဂသံဝတ္တနိကာနိ နိရောဓသံဝတ္တနိကာနိ နိဗ္ဗာနသံဝတ္တနိကာနိ။

နမော ဣမေသံ တိဏ္ဏံ ပိဋကာနံ အာဒိကလျာဏာနံ မဇ္ဈေကလျာဏာနံ ပရိယောသာနကလျာဏာနံ သာတ္ထာနံ သဗျဉ္ဇနာနံ ကေဝလပရိပုဏ္ဏသ ပရိသုဒ္ဓသ ဗြဟ္မစရိယဿ ပကာသကာနံ အတ္ထဂမ္ဘီရာနံ ဓမ္မဂမ္ဘီရာနံ ဒေသနာဂမ္ဘီရာနံ ပဋိဝေဓဂမ္ဘီရာနံ၊ သီလက္ခန္ဓဘာဇနာနံ သမာဓိက္ခန္ဓဘာဇနာနံ ပညာက္ခန္ဓဘာဇနာနံ ဝိမုတ္တိခန္ဓဘာဇနာနံ ဝိမုတ္တိဉာဏဒဿနက္ခန္ဓဘာဇနာနံ အဘိညာသံဝတ္တနိကာနံ ပရိညာသံဝတ္တနိကာနံ သမ္ဗောဓသံဝတ္တနိကာနံ ဝိရာဂသံဝတ္တနိကာနံ နိရောဓသံဝတ္တနိကာနံ နိဗ္ဗာနသံဝတ္တနိကာနံ။ ။

ဒုတိယမ္ပိ၊ တတိယမ္ပိ–စသည်ဖြင့် ပြည့်စုံစွာဆိုလေ။ [*၄]

---

*၁ သခင်ကိုယ်တော်မှိုင်း၏ တို့မြန်မာဝတ်ရွတ်စဉ်။ လူထုစာအုပ်တိုက်၊ မန္တလေးမြို့။ ၁၉၉၀–ပြည့်နှစ်။ (စာမျက်နှာ–၆၄)။

*၂ ဦးယမ်၏ ပိဋကတ်တော်သမိုင်း။ ပြည်ကြီးမဏ္ဍိုင်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၇–ခုနှစ်။ (စာမျက်နှာ ၁–၇)။

*၃ လယ်တီဆရာတော်ကြီး၏ ပိဋကတ်သုံးပုံပူဇော်နည်းကို မင်းကွန်းဓမ္မနာဒကျောင်းတိုက် ပဌမဆရာတော် ဦးပညာဇောတ မထေရ်သည် အတုလိုက်၍ နှစ်စဉ် မြန်မာနှစ်ဆန်းသို့ရောက်တိုင်း ပိဋကတ်သုံးပုံပါဠိတော်တို့ကို ဆီမီး,ပန်းတို့ဖြင့် ပူဇော်ပြီး၊ ဝိနည်းပိဋက ပါရာဇိကဏ်ပါဠိတော်စ၍ နေ့စဉ်မှန်မှန် ပိဋကတ်သုံးပုံ နိကာယ်ငါးရပ်ကုန်သည်တိုင် ရွတ်ဆို သရဇ္ဈာယ်တော်မူလေ့ရှိပါသည်။

*၄ လယ်တီဦးပဒုမ၏ လယ်တီဝတ်ရွတ်စဉ်။ ဇေယျဝတီစာပေ၊ ရန်ကုန်မြို့။ ၁၉၇၃–ခုနှစ်။ (စာမျက်နှာ ၁၂၂–၁၂၅)။

ဒွါဝီသတိမဝါဆိုတော်မူခြင်း

သက္ကရာဇ် ၁၂၄၉–ခုနှစ်၊ ဝါဆိုလ(၁၈၈၇–ခု၊ ဇူလိုင်လ)တွင် ဘုန်းတော်ကြီးအရှင်ဉာဏသည် လယ်တီတောရကျောင်း၌ ဝါဆိုသံဃာနှစ်ကျိပ်ကျော်နှင့်အတူ (၂၂)ကြိမ်မြောက်သော ဒွါဝီသတိမဝါကိုကပ်ဆိုတော်မူပါသည်။ ဤဝါသည်ကား လယ်တီတောရအတွင်း၌ ဘုန်းတော်ကြီး ရှေးဦးပထမ ကပ်သောဝါဖြစ်သည်။

ထို သက္ကရာဇ် ၁၂၄၉(အေဒီ–၁၈၈၇)ခုနှစ်တွင် ဗြိတိသျှအစိုးရသည် အေဒီ ၁၈၈၇–ခုနှစ်အထက် မြန်မာနိုင်ငံကျေးရွာ အုပ်ချုပ်ရေးစည်းမျဉ်းဥပဒေကို*၁ ပြဋ္ဌာန်းပြီး ရှမ်းပြည်နယ်မပါဝင်စေဘဲ အထက်မြန်မာနိုင်ငံကို လေးပိုင်းပိုင်းခြားခဲ့သည်။ အလယ်ပိုင်းတွင် ချင်းတွင်းဒေသကိုထည့်သွင်းထားပြီး ထိုချင်းတွင်းဒေသကိုပင် အောက်ချင်းတွင်းစီရင်စုနှင့် အထက်ချင်းတွင်းစီရင်စုဟူ၍ နှစ်ပိုင်းခွဲခြားကာ အုပ်ချုပ်ခဲ့လေသည်။*၂ အောက်ချင်းတွင်းစီရင်စု၏ခရိုင်ဝန်ရုံးကို မုံရွာ၌ထားသည်။ လေ့ကူးရွာကိုလည်း မုံရွာနှင့်ပေါင်း၍ မုံရွာကို မြို့အဖြစ်တိုးမြှင့်သတ်မှတ်လိုက်သည်။ ထိုစဉ်က မုံရွာမြို့လူဦးရေမှာ ၂,၀၀၀–ခန့်ရှိပြီး၊ အိမ်ခြေ ၃၄၅–အိမ်ရှိကြောင်းသိရ၏။ ထိုနှစ်မှာပင် မုံရွာမြို့ မြင်းမူလမ်းမရှိ ယခုဈေးသစ်အနောက်ဘက်ခြမ်း၌ ဆေးရုံတစ်ရုံဖွင့်လှစ်ခဲ့ပြီး အရှေ့ဘက်တွင် ရင်ခွဲရုံတည်ရှိခဲ့သည်။*၃

သံဃကိစ္စကြီးငယ်ကိုဆောင်ရွက်ခြင်း

ဤသို့ မြို့ရွာဖွဲ့စည်းပုံအပြောင်းအလဲဖြစ်နေသော လှုပ်လှုပ်ရွရွကာလတွင် လယ်တီတောရဘုန်းတော်ကြီးကား ခေတ်ကာလ၏ပြောင်းလဲပုံကို သူ့စိတ်အတွင်းအဝင်မခံဘဲ မိမိဆောင်ရွက်ရမည့် သာသနာရေးဆိုင်ရာကိစ္စများကိုသာ တိုး၍ဆောင်ရွက်တော်မူခဲ့သည်။ ထိုစဉ်အခါက လယ်တီဘုန်းတော်ကြီးအရှင်ဉာဏသည် တောရသံဃာတော်များနှင့်စပ်သောကိစ္စကြီးငယ်အသွယ်သွယ်တို့ကိုသာဆောင်ရွက်တော်မူခဲ့ပုံအကြောင်းကို နောင်အခါ ဆရာတော်ကြီး၏ဘုန်းတော်ဘွဲ့ဂါထာတို့တွင် 'ဝဟံ သံဃဿ ကိစ္စာနိ' (ထိုလယ်တီတိုက်ကြီး၌၊ သံဃဿ=သံဃာတော်များ၏၊ ကိစ္စာနိ=ကိစ္စကြီးငယ်အသွယ်သွယ်သောအမှုမျိုးတို့ကို၊ ဝဟံ ဝဟန္တော= ဆောင်ရွက်ကြိုးပမ်းတော်မူလျက်)ဟူ၍ပင် ထည့်သွင်းဖွဲ့ဆိုခဲ့ကြပါသည်။*၄

ထိုစဉ်အခါက လယ်တီဘုန်းတော်ကြီးအရှင်ဉာဏ၏ တောရသံဃာတို့၏သံဃကိစ္စ သံဃဝေယျာဝစ္စဆောင်ရွက်တော်မူခဲ့ပုံတို့ကို တင်ပြပါဦးမည်။

---

*၁ The Upper Buma Village Regulation, 1887.

*၂ Lower Chindwin District Gazetteer, Volume A. reprint, 1967. Page-164.

*၃ မုံရွာတင်ထွန်း၏ နှစ်တစ်ရာစည်ပင်သာယာ(ဆောင်းပါး)။ မုံရွာမြို့ရာပြည့်မော်ကွန်းမဂ္ဂဇင်း။ ၁၉၉၈–ခုနှစ်။ (စာမျက်နှာ–၆၁)။

*၄ လယ်တီပဏ္ဍိတ၏ လယ်တီဆရာတော်ဘုရားကြီး၏ ပါဠိဂါထာဘုန်းတော်ဘွဲ့၊ ဂါထာအမှတ်–၁၇။ ကဗျာမဥ္ဇရီ။ (စာမျက်နှာ–၁၅၅)။

လယ်တီဘုန်းတော်ကြီးသည် မန္တလေးမြို့စံကျောင်းတိုက်၌နေစဉ်အခါက သံဃကိစ္စ သံဃဝေယျာဝစ္စတို့ကို ကြိုးကြိုးပမ်းပမ်းဆောင်ရွက်တော်မူခဲ့ဖူးပါသည်။ မန္တလေးမြို့မှစွန့်ခွာတော်မူပြီးနောက် မုံရွာမြို့လယ်ရှိ ရွှေစည်းခုံကျောင်းကြီးတွင် သီတင်းသုံးနေစဉ်အခါ၌လည်းကောင်း၊ လေ့ကူးရပ်ရှိ သင်္ဂြိုဟ်ဦးဝိုင်းကျောင်းတွင် သီတင်းသုံးနေစဉ်အခါ၌လည်းကောင်း ထိုသံဃဝေယျာဝစ္စလုပ်ငန်းကိုမပျက်မကွက်စေဘဲ ဆောင်ရွက်တော်မူခဲ့သည်။ လယ်တီတောရသို့ရောက်သည့်အခါ၌လည်း ထိုသံဃဝေယျာဝစ္စဝတ်ကိုမပျက်စေဘဲ ဆက်လက်ရွက်ဆောင်တော်မူခဲ့ပါသည်။

ဆောင်ရွက်တော်မူပုံမှာ နံနက်အရုဏ်တက်ချိန်မှစ၍ တိုက်လုံးနှံ့အောင် တံမြက်လှဲကျင်း၍ သေနာသနဝတ်ကို နိစ္စဗဒ္ဓမချွတ်တမ်းဖြည့်စွမ်းတော်မူခဲ့၏။ ကျောင်းပရိဝုဏ်အတွင်း အချို့သောနေရာတို့မှာ အမှိုက်မရှိပြောင်စင်နေလင့်ကစား ဘုန်းတော်ကြီးသည် မိမိကျင့်ဝတ်ကိုဂရုပြုသောအားဖြင့် အမှိုက်မရှိသော်လည်း ထိုနေရာကို လှဲမြဲလှဲလေ့ရှိ၏။ မလှဲရန်တားမြစ်သော်လည်းမရပေ။

ထို့ပြင် တိုက်သံဃာများသုံးရန် ရေခပ်တော်မူပါသည်။ ထိုစဉ်က လယ်တီတောရအတွင်း၌ ရေတွင်းရေကန်မရှိသေး။ လယ်တီတောရ၏မြောက်ဘက်တောစပ်တွင် အင်းကြီးတစ်အင်းတည်ရှိပြီး ထိုအင်းသည် နွေ,မိုး,ဆောင်း ဥတုသုံးပါးမပြတ် ရေအမြဲရှိ၏။ ထိုအင်းကြီးကို လယ်တီတောနှင့်တစ်စပ်တည်းတည်ရှိနေသောကြောင့် လယ်တီအင်းဟု နောက်ပိုင်း၌ခေါ်ကြ၏။ ထိုလယ်တီအင်း၏အစပ်တွင် ရေထွက်ကလေးတစ်ခုရှိနေ၏။*၁ ထိုမှရသောရေသည် ချိုကြည်အေးမြ၍ သောက်သုံးရန်သင့်လျော်လေသည်။ လယ်တီဘုန်းတော်ကြီးသည် ထိုရေထွက်ကလေးမှ ရေကိုခပ်ယူပြီး တောရတိုက်သံဃာများသောက်ရန်သုံးရန် ကျောက်ခွက်များ၌ဖြည့်ဆည်းထားတော်မူသည်။ တောရကျောင်းသံဃာတော်များအတွက် ရေပြည့်စုံသောအခါ မုံရွာမြို့ပေါ်ကျောင်းတိုက်များရှိ ထေရ်ကြီးဝါကြီးများအားရည်မှန်း၍ သောက်တော်ရေတစ်အိုးစီခပ်ယူပြီး ကိုယ်တိုင်ထမ်းကာ အရပ်လည်၍ ရေဝတ်တည်လှူဒါန်းတော်မူလေ့ရှိပါသည်။

လယ်တီတိုက်သံဃာများသည် နံနက်တိုင်းတွင် ကျောက်ခွက်ကြီးများတွင်ရေပြည့်လျှံလျက်ရှိသည်ကိုတွေ့ကြရပြီး မည်သည့်ပုဂ္ဂိုလ်ခတ်ထားကြောင်း အချိန်အတော်ကြာသည့်တိုင်အောင် မသိခဲ့ကြပေ။ ထိုအခါ သံဃာများက ဤသောက်သုံးရေကို မည်သူခပ်နေပါသနည်းဟု စုံစမ်းကြ၏။

---

*၁ ထိုရေထွက်ကို ရေစက်မိုလ်ကြီးဦးလှကဒကာခံ၍ ရေတွင်းအဖြစ်တူးဖော်ပြီး ကျောက်ရိုးချအုတ်စီပြုပြင်ပေးခဲ့ပါသည်၊ ထိုရေတွင်းကလေးတည်ရှိသောနေရာသည် မုံရွာမြို့ မြူနီစီပါယ်က မြို့ရေပေးရန် ရေစက်ဝင်းပြုလုပ်သောအခါ ပါဝင်သွားခဲ့ပြီဖြစ်သည်။ ထိုနေရာကို သက္ကရာဇ် ၁၃၄၇–ခုနှစ်၊ ကဆုန်လဆန်း–၉ (အေဒီ–၂၇၊ ဧပြီလ၊ ၁၉၈၅)ခုနှစ်က နဝမလယ်တီဆရာတော်ဦးကေလာသ၊ ရွှေသုဝဏ်အရှင်ဓမ္မပါလတို့ဦးဆောင်၍ ရပ်ကွက်မှဒကာများ၏သဒ္ဓါစွမ်းအားဖြင့် ပြန်လည် တူးဖော်ပြုပြင်ထားသည်။ လယ်တီအရှင်ကေလာသ၏ လယ်တီရေတွင်းကြီး(ဆောင်းပါး)။ မြတ်လေးစာစောင်၊ ဇန်နဝါရီလ၊ ၁၉၈၇–ခုနှစ်။ (စာမျက်နှာ–၇၁)။



လယ်တီဆရာတော်ကြီးဥပုသ်ပြုရာ
တလုံးတောရသိမ်နေရာ



တလုံးတောရရှိရေကန်



မုံရွာမြို့ လယ်တီတောရအနီးရှိ လယ်တီအင်းကြီး



လယ်တီဆရာတော်ကြီး ရေဝတ်ပြုတော်မူရာ
လယ်တီအင်းအနီးရှိရေတွင်း




လယ်တီတိုက်အတွင်းရှိ
သံဃာတော်များ
အသုံးပြုရန်ရည်ရွယ်လျက်
လယ်တီဆရာတော်ကြီး
ရေဝတ်ပြုထားသော
ကျောက်ခွက်ကြီး

တစ်နေ့သော် မကျန်းမာသောကိုယ်တော်တစ်ပါး နံနက်အရုဏ်မတက်မီ ကျိန်းစက်မရသည့်အတွက် ကျောင်းမှအပြင်သို့ကြည့်နေစဉ် သင်္ကန်းတော်များရေစိုစွဲလျက် ရေအိုးကိုထမ်းကာ ရေဝတ်ပြုနေတော်မူသော ဘုန်းတော်ကြီးကိုမြင်တွေ့သွားရာမှ ဘုန်းတော်ကြီးကိုယ်တော်တိုင်ခပ်ထားသော ရေတို့ပါတကားဟုသိရှိကြပြီး သံဃာတော်တို့ မသောက်ဝံ့မသုံးဝံ့ ဖြစ်ခဲ့ကြသည်။ တပည့်သံဃာတို့ သုံးစွဲရန်မဝံ့ကြကြောင်းကိုသိတော်မူလျှင် တိုက်သံဃာတို့အား ခေါ်ယူစုဝေးစေပြီး–

'တပည့်တို့၊ ငါကိုယ်တိုင်ခပ်ထားသောသုံးရေများကို သုံးမြဲတိုင်း သုံးစွဲကြ၊ မသုံးဝံ့မရှိကြနှင့်၊ ဆွမ်းစားကျောင်းသုံးရေကိုလည်း ပြုစုရန် ငါ့အားခွင့်ပြုကြ။

တပည့်တို့၊ လောက၌ အစဉ်အလာရှိသည်မှာ မကိုင်ရှုသျှောင်၌တပ်ဆင်နေကျ ပတ္တမြားကျောက်ကို ခြေ၌ဝတ်ဆင်ရိုးမရှိကြ။ ခြေ၌ဝတ်ဆင်နေကျခြေကျင်းကို ဦးခေါင်း၌ ဝတ်ဆင်ရိုးမရှိကြ။ ဤဥပမာအတူ ဆရာသည် တပည့်အလုပ်ကို မလုပ်သင့်၊ တပည့်သည် ဆရာ့အလုပ်ကိုမလုပ်သင့်ဟု ယူဆနေကြသည်။ ထို့ကြောင့် သင်တို့သည် ငါခပ်ထားသော ခြေဆေးရေစသည်ကို မသုံးစွဲဝံ့ဘဲ မျက်နှာလွှဲနေကြသည်။

တပည့်တို့၊ ဤလောက၌ လူ့စည်းကမ်းမဟုတ်ဘဲ စဉ့်မြေခွက်ကို မကိုဋ်၌တပ်ဆင်ထားအံ့။ ပတ္တမြားကျောက်ကို ခြေထောက်၌တပ်ဆင်ထားအံ့။ သို့သော် ပတ္တမြားကျောက်၌ အပြစ်တစ်စုံတစ်ရာမရှိနိုင်။ ပတ္တမြားရတနာသည် ပတ္တမြားအဖြစ်နှင့်ပင်တည်နေသည်။ ဤဥပမာအတူ ပညာရှိသူတော်ကောင်းတို့လည်း တစ်စုံတစ်ရာအပြစ်မရှိနိုင်။ ခြေဆေးရေစသည်ကို ခပ်ပေးခြင်းဖြင့် အပြစ်မရ။ ဆရာ့ဂုဏ်အင်္ဂါလည်းမပျက်၊ ပို၍ပင်ဂုဏ်တိုးတက်၍ ကျက်သရေပင်ရှိသေးသည်။

တပည့်တို့၊ ဤလောက၌ နတ်သိကြား စကြာမန္ဒတ် ရဟန်းပုဏ္ဏားတို့၏ ခန္ဓာကိုယ်မှာဖြစ်စေ၊ သတ္တဝါအားလုံးတို့၏ခန္ဓာကိုယ်မှာဖြစ်စေ၊ ကျင်ကြီးကျင်ငယ်စသော အညစ်အကြေးတို့ဖြင့်ညစ်ပတ်ပေရေနေ၏။ လောဘစသောအပုပ်နံ့တို့ဖြင့် ညီစော်နံ၏။ ထို့ကြောင့် ခန္ဓာကိုယ်ဟူသမျှသည် ညစ်ပတ်လူးလဲ၍သာရှိကြ၏။ ခြေဆေးရေခတ်ခြင်း၊ ကနုတ်ဆေးခြင်းစသော ညစ်ပတ်လူးလဲ၍ အောက်ကျသောလုပ်ငန်းများနှင့်သာ ပို၍ထိုက်တန်လှပေသည်'–ဟူသော ဩဝါဒစကားကိုမိန့်ကြားပေးတော်မူပါသည်။*၁

ဘုန်းတော်ကြီးသည် မိမိရေဝတ်တည်သည်ကို တပည့်များသိပြီးသောအခါ ခြေဆေးရေစသည့်ဝတ်များကိုမပြုတော့ဘဲ ကနုတ်ဆေးခြင်း၊ ကုဋီနှင့်စပ်လျဉ်းရာဝတ်တို့ကား ပြမြဲပြုတော်မူ၏။ ထိုဝတ်ကိုတားသော်လည်း တားမရ၊ ပြုတော်မူခဲ့၏။

*၁ လယ်တီဦးလုပိုင်၏လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၉၅)။

လယ်တီဘုန်းတော်ကြီးသည် မြို့တွင်းဆွမ်းခံကြွရာမှာပင် မိမိထက်သက်ဝါကြီးသော မဟာထေရ်ကြီးများသီတင်းသုံးရာကျောင်းတိုက်များသို့ လှည့်လည်သွားရောက်ပြီး မိမိဆွမ်းခံရလာသော ဆွမ်းဟင်းများမှ မွန်မွန်မြတ်မြတ်ကိုရွေးချယ်ကာကပ်လှူ၏။ သောက်ရေ, ခြေဆေးရေများတည်ပေးသည်။ ကုဋီစသည်ကိုလည်း ဆေးကြောပေးသည်။ အခြားဝတ်ကြီးဝတ်ငယ်တို့ကိုလည်းပြုစုတော်မူသည်။ အချို့သောဘုန်းကြီးတို့က 'လယ်တီဘုန်းကြီး–သည်လိုမလုပ်ပါနှင့်'စသည်ဖြင့် ပြောဆိုတားမြစ်သော်လည်း လက်မခံဘဲ ပြုမြဲတိုင်းပြုတော်မူခဲ့ပါသည်။ မိမိထက် သက်တော်ဝါတော်ကြီးသော အရှင်မြတ်တို့မှုကား ရှိသေစွာလက်စုံမိုး၍ ရှိခိုးလျှောက်ထားလေ့ရှိသည်မှာ–

'အရှင်တို့ဘုရား၊ ကြောင့်ကြမဲ့သီတင်းသုံးတော်မူကြပါ။ ဘဝသံသရာအဆက်ဆက်က တပည့်တော်၏လက်ခြေများမှာ သားကျွန်မယားကျွန်ဖြစ်ခဲ့ဖူးပေါင်းများလှပါပြီ။ အမှန်သိရသောယခုလိုဘဝမျိုးတွင် တပည့်တော်၏လက်ခြေအစုံတို့ကို သံဃာတော်များ၏ကျွန်အဖြစ်ဆောင်ရွက်စေလိုပါသည်။ တားမြစ်တော်မမူကြပါနဲ့ဘုရား၊ သံဃာတော်တို့၏ဝတ်ကို လက်ခြေနှစ်စုံဖြင့်ဆောင်ရွက်ခွင့်ပြုတော်မူကြပါဘုရား'–ဟူ၍ဖြစ်၏။*၁

လယ်တီဘုန်းတော်ကြီးသည် မိမိကိုယ်တိုင် သံဃဝေယျာဝစ္စကိုဆောင်ရွက်ဘိသကဲ့သို့ အနီးနေတပည့်များကိုလည်း 'သာသနာနဲ့တွေ့တုန်းကြုံတုန်း သာသနဝေယျာဝစ္စ သံဃဝေယျာဝစ္စတို့ကို တတ်နိုင်သမျှဆောင်ရွက်ကြ'ဟုတိုက်တွန်းတော်မူလေ့ရှိရာ အချို့တပည့်များက အတုလိုက်၍ဆောင်ရွက်ကြ၏။ ဘုန်းတော်ကြီးကဲ့သို့မဆောင်ရွက်နိုင်ကြသောကြောင့် နောင်အခါတွင် 'ငါတို့သည် လယ်တီဆရာတော်ဘုရားကြီးရဲ့သြဝါဒကိုတော့ရကြပါရဲ့၊ ဒါပေမယ့် လယ်တီဆရာတော်ဘုရားကြီးကို မီအောင်မလိုက်နိုင်ကြပါဘူး။ သံဃကျွန်ခံရာမှာဆိုရင် လယ်တီဆရာတော်ကြီးက ရေခပ်ပြီးကုသိုလ်ပြုတာ နှစ်ပေါင်းများစွာ၊ ဆွမ်းခံပြီးကျွန်ခံတာက နှစ်ပေါင်းများစွာ၊ ကုဋီဝေယျာဝစ္စကုသိုလ်ပြုတာက နှစ်ပေါင်းများစွာ၊ တို့လဲ သံဃကျွန်ခံခဲ့ပါရဲ့၊ လယ်တီဆရာတော်ဘုရားကြီးကို ဆယ်ပုံပုံ တစ်ပုံတောင်မီအောင်မလိုက်နိုင်ခဲ့ပါဘူး'ဟု အမိန့်ရှိကြပါသည်။*၂

တစ်ခါသော် လယ်တီတိုက်နေကိုယ်တော်လေးတစ်ပါး ဝမ်းလျှောလေရာ သီတင်းသုံးဖော်သံဃာတော်တို့ အနားမကပ်ရဲဘဲရှိနေကြသည်။ ဤသတင်းကို လယ်တီဘုန်းတော်ကြီးကြားသိလျှင်သိချင်း ထိုဝမ်းလျှောနေသောရဟန်းငယ်ထံသွားရောက်ပြီး ကိုယ်တိုင်ကိုယ်ကြပ် ပြုစုစောင့်ရှောက်တော်မူပါသည်။ ဝမ်းရောဂါရှင်ရဟန်းငယ်၏ မစင်အလိမ်းလိမ်းလူးနေသောသင်္ကန်းနှင့်

*၁ လယ်တီအရှင်သုမနာဘိဝံသ၏ လယ်တီမိန့်ခွန်းတော်များ။ ရွှေဝါထုတ်ဝေရေး၊ ရန်ကုန်မြို့။ ၁၉၉၇–ခုနှစ်။ (စာမျက်နှာ–၅၂)။

*၂ အဘိဓမ္မမဟာရဋ္ဌဂုရု မစိုးရိမ်ဆရာတော်ဘုရားကြီးဘဒ္ဒန္တ သူရိယာဘိဝံသ၏ မိန့်တော်မူချက်ဖြစ်သည်။ အရှင်ရာဇဓမ္မာဘိဝံသ၏ မစိုးရိမ်ထေရုပ္ပတ္တိကထာ။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ–၁၄၇)။

စောင်တို့ကို လျှော်ဖွပ်ရန် ရေချိုးအိမ်သို့ယူဆောင်တော်မူခဲ့ရာ ဝမ်းရောဂါကြောင့်ဖြစ်သော မစင်နံ့မှာ များစွာညှီစော်ပုပ်နံနေသဖြင့် သည်းမခံနိုင်ဖြစ်တော်မူပြီး တွန့်ဆုတ်သွားခဲ့၏။ ထိုအခါ မိမိစိတ်ကိုတင်းပြီး 'ဟယ်–စိတ်၊ ငါ့အားလှည့်စားသလော' ဟုဆိုမြည်ပြီး မစင်လူးနေသော သင်္ကန်း၊စောင်တို့ဖြင့် မိမိကိုယ်ကိုပွတ်တိုက်တော်မူလိုက်၏။ ထို့နောက်မှ ဆက်၍လျှော်ဖွပ်တော်မူလေသည်။ လယ်တီဘုန်းတော်ကြီးသည် ယခုကဲ့သို့ ဘုန်းတော်ကြီးဘဝသို့ရောက်မှ သူ နာပြုကိစ္စမျိုးကို ပြုလုပ်ခဲ့သည်မဟုတ်၊ မန္တလေးစံကျောင်းတိုက်၌နေစဉ် စာသင်သားဘဝ၊ စာချဘုန်းကြီးဘဝကပင် ဤကဲ့သို့ သူတကာတို့မပြုနိုင်သောအမှုမျိုးကို ပြုလုပ်ခဲ့ပါသည်။

ဤဖြစ်ရပ်နှင့်စပ်လျဉ်း၍ နောင်သောအခါ လယ်တီဆရာတော်ကြီးက–

'ငါ့ကွယ်...စံကျောင်းတိုက်ထဲနေစဉ်အခါတုန်းက ကနုတ်ဆေး၊ ကုဋီအိမ်ရေလောင်း၊ မကျန်းမမာတဲ့ရဟန်းများ၏ကျင်ကြီးကျင်ငယ်ပေကျံနေတဲ့ သင်္ကန်းတွေ ဖွပ်လျှော်ပေးနဲ့ အဲသည်လိုလုပ်လာခဲ့တာ အမြဲပဲဟေ့။ လူမမာမပြုစုတာကြာတော့ ထိုမောင်ပဥ္စင်းလေးရဲ့ သင်္ကန်းနဲ့စောင်တွေကို ရုတ်တရက်ရွံသလိုလိုဖြစ်မိတယ်။ စိတ်ပေါက်ပေါက်ရှိလေတော့ ကျင်ကြီးကျင်ငယ်ပေနေတဲ့ သူ့သင်္ကန်းနဲ့ငါ့တစ်ကိုယ်လုံး အတင်းပွတ်တိုက်ပြီး သိဒ္ဓိတင်လိုက်တော့မှ ငါ့စိတ်ထဲရဲတင်းသွားပြီး ရွံတဲ့စိတ်ပျောက်သွားတော့တယ်ဟေ့' –ဟူ၍ မိန့်တော်မူပါသည်။*၁

**ဒီပဲယင်းအရက်မေတ္တာစာ**

စိုင်ပြင်ရွာသူကြီးဦးဆိုင်းထံသို့ပေးပို့ခဲ့သော အရက်မေတ္တာစာသည် စိုင်ပြင်တစ်ဝိုက်၊ ဒီပဲယင်းတစ်ဝိုက်၌ အတော်ပျံ့နှံ့ခဲ့ပုံရ၏။ ထိုစိုင်ပြင်မေတ္တာစာကိုဖတ်ရှုကြရသော ဒီပဲယင်းနယ်သားများကလည်း မိမိတို့ ဒီပဲယင်းနယ်အတွင်းရှိ အရက်သေစာသောက်စားသူတို့ကိုလည်း ဆုံးမသော မေတ္တာစာတစ်ပုဒ်ရေးသားပေးတော်မူပါရန် လယ်တီဘုန်းတော်ကြီးထံလျှောက်ထားကြပြန်သဖြင့် ဤသက္ကရာဇ်–၁၂၄၉(အေဒီ–၁၈၈၇)ခုနှစ်အတွင်း၌ပင် ဒီပဲယင်းအရက်မေတ္တာစာကို ရေးသားတော်မူခဲ့ပါသည်။*၂

လယ်တီဘုန်းတော်ကြီးသည် မန္တလေးမြို့၊ စံကျောင်းတိုက်၌နေထိုင်စဉ်အခါက ယောမင်းကြီး ဦးဘိုးလှိုင်က 'အရက်သောက်စားမှုသည် ကမ္ဘာ့ပထမ မကောင်း' ဟူသော အယူကိုနှစ်သက်ခဲ့လင့်

---

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၉၇)။ ဝမ်းလျှောသောရဟန်းတော်နေသောကျောင်းမှာ ဒေါ်ငြိမ်းအေးဆောက်သောကျောင်းဟု လယ်တီဦးလှပိုင်၏ ဂန္ထဝင်ကျော်စာအုပ်ကဖော်ပြထားသော်လည်း၊ ယခုအခါ လယ်တီတိုက်ကြီးအတွင်း၌ ဒေါ်ငြိမ်းအေးကျောင်းဟူ၍မရှိတော့ပေ။ နဝမလယ်တီဆရာတော်အရှင်ကေလာသက ထိုဒေါ်ငြိမ်းအေးကျောင်းနေရာသည် ယခု မှော်နန္ဒအုတ်ကျောင်း(၁၉၈၂–ခုနှစ်ဆောက်)နေရာဖြစ်လိမ့်မည်ဟု (၁၁-၁၁-၁၉၉၇)နေ့က အမိန့်ရှိတော်မူပါသည်။ ဝမ်းလျှောသောရဟန်းငယ်ကလေးမှာ နောင်အခါ ရသေ့ထူးဦးစံသိန်းဟု ထင်ရှားလာမည့်ပုဂ္ဂိုလ်ဖြစ်သည်။ ညိုညိုစိုး၏လယ်တီဆရာတော်ကြီးဘဝနှင့်စာပေ။ (လက်နှိပ်စက်မူ)။ (စာမျက်နှာ–၁၇)။

*၂ ချောင်းဦးမောင်စန္ဒာ၏ လယ်တီမေတ္တာစာမှတ်စု (ဆောင်းပါး)။ ထိပေ့သျှင်မှအာစာနည်းများ။ ၁၉၇၈–ခုနှစ်။ (စာမျက်နှာ–၉၉)။

ကစား သက်တော်ရှယ်တော်ရင့်လာသည့်အခါ အရက်သည် နည်းနည်းပဲသောက်သောက် များများပဲသောက်သောက် ဘယ်ကလောက်သောက်သောက် ကောင်းကျိုးမပေးပုံကို မျက်ဝါး ထင်ထင်တွေ့မြင်တော်မူသည်ဖြစ်၍ အရက်သေစာသည် လူကိုဖျက်ဆီးသောလက်နက်ဆိုးကြီး ဖြစ်ကြောင်းကို ကောင်းစွာသဘောသက်ဝင်တော်မူခဲ့ပါသည်။ အရက်နှင့်ဖက်တွဲနေသရွေ့ ကာလပတ်လုံး မည်သည့်ကောင်းကျိုးမှမရနိုင်၊ အကုသိုလ်မှု ဒုစရိုက်မှုများသာဖြစ်ပွားနေမည် ဖြစ်ကြောင်းကိုသိတော်မူသည့်အတိုင်း ဒကာတို့အားလည်းဟောပြောတော်မူခဲ့ပါ၏။

လယ်တီဘုန်းတော်ကြီးသည် စိုင်ပြင်ပေးမေတ္တာစာရေးတော်မူစဉ်အခါက ကျောင်းဒကာ ဦးဆိုင်းတစ်ဦးတည်းထံသို့ ပုဂ္ဂလိကအဖြစ်ပေးသောမေတ္တာစာဖြစ်၍ အမွမ်းအချယ်လင်္ကာတန်ဆာ ဆင်မှုစသည်နည်းခဲ့၏။ ဒီပရင်းမေတ္တာစာမှာကား အရက်သေစာသောက်စားသူတိုင်းကိုရည်ရွယ်၍ ရေးသားဆုံးမတော်မူခြင်းဖြစ်သောကြောင့် ဥပစာစကားတန်ဆာဆင်ပြီး ရေးသားထားတော်မူခဲ့၏။ အရက်သောက်ခြင်းကြောင့် အကျိုးမဲ့ဖြစ်ပုံတို့ကို ဇာတ်နိပါတ်တော်သာဓကများစွာ သရုပ်ဖော် ကာ ရေးသားထားတော်မူလေသည်။ အရက်သောက်ခြင်းကြောင့်ဖြစ်သော အပြစ်ခြောက်ပါး တို့ကိုလည်း ဒီဃနိကာယ်၊ ပါထိကဝဂ္ဂပါဠိတော် သိင်္ဂါလောဝါဒသုတ်၌ပါသည့်အတိုင်း ပြဆို ထား၏။ (ဒီ၊ ၃။ ၁၄၈။)။

ထို့နောက် သေရည်သောက်ခြင်းကြောင့် အကျိုးမဲ့ဖြစ်ကြရပုံတို့ကို ဝတ္ထုသာဓကဆောင် တော်မူသည်မှာ–

၁။ မြတ်စွာဘုရားရှင်လက်ထက်က လောကီဈာန်အဘိညာဉ်ရ အရှင်သာဂတမထေရ်သည် အလွန်တန်ခိုးကြီးသောနဂါးကိုပင် နိုင်ရခဲ့သော်ငြားလည်း အရက်သေစာ သောက်စားမူးယစ်ကာ ဘုရားရှင်၏ရှေ့တော်မှာပင် အမှောက်မှောက်အမှားမှားဖြစ်ပြီး ရှုးသွပ်ခဲ့ရကြောင်း။ (ဝိ၊ ၂။ ၁၄၅။)။

၂။ တာဝတိံသာနတ်ပြည်၌ အုပ်စိုးချယ်လှယ်နေထိုင်ခဲ့သော အသူရာနတ်မင်းသည် သေအရက်သောက်စားမူးယစ်နေသဖြင့် တာဝတိံသာနတ်ပြည်မှအောက်သို့ အပစ်ချ ခံလိုက်ရပြီးလျှင် မြင်းမိုရ်တောင်၏အခြေရှိသခွတ်နန်း၌ အသူရာဟုဖြစ်ခဲ့ရကြောင်း။ (သံ၊ ဌ၊ ၁။ ၃၀၉။)။

၃။ ဘုရားရှင်လက်ထက်က သာဝတ္ထိပြည်တွင် အနာထပိဏ်သူဌေးကြီး၏တူသည် မိဘ အမွေအနှစ်များစွာကိုဆက်ခံ၍ သူဌေးဘွဲ့ရပြီးကာမှ အရက်သေစာသောက်စားသော ကြောင့် ခွက်လက်စွဲကာ တောင်းစားရသောအဖြစ်သို့ရောက်ခဲ့ရပုံအကြောင်း။

၄။ အရှင်သာရိပုတြာမထေရ်ကြီးသည် အလောင်းတော်တစ်ဘဝ နစဉ်အခါက ရှင်ဘုရင် ဖြစ်ရာတွင် အရက်သေစာမူးယစ်လွန်ကဲသဖြင့် မိမိ၏ရင်ခွင်ထက်က သားတော် ကလေးကိုပင် အမြည်းလုပ်စားသောက်ပြီး အမူးပြေမှ နောင်တရမဆုံး ဖြစ်ခဲ့ရပုံ အကြောင်း။ (ဇာ၊ ဌ၊ ၂။ ၁၇၇။)။

၅။ ဘုရားရှင်လက်ထက်က သေရည်သောက်စားကာ သူတစ်ပါးသားမယားကိုပြစ်မှား၍ သေလွန်သောအခါ ငရဲ၌ကျရောက်ကာ 'ဒု,သ,န,သော' ဟု စကားလေးလုံးကိုသာ ရွတ်ဆိုနိုင်ကြသော သူဌေးသားလေးယောက်တို့အကြောင်း။ (ဓမ္မ၊ ဋ္ဌ၊ ၁။ ၂၈၆။)။

၆။ ဟိမဝန္တာတောင်၌နေသော ဝရုဏရသေ့အား သူရာအရက် ချော့တိုက်ရာမှ သူရာ အမည်တွင်ပုံနှင့်တကွ အရက်သေစာသောက်စား၍ ပြည်ရွာပျက်ခဲ့ဖူးသောအကြောင်း။ (ဇာ၊ ၁။ ၁၆၆။ ဇာ၊ ဋ္ဌ၊ ၃။ ၃၅၄။)။

၇။ မဟာရာဇဝင်တွင် တပင်ရွှေထီးမင်းတရားသည် အရက်သေစာသောက်စား၍ အသက် ငယ်ရွယ်စဉ်မှာပင် ပျက်စီးခဲ့ရကြောင်း။*၁

၈။ အင်းဝဘုရင့်သားမင်းရဲကျော်စွာသည်လည်း အရက်ကိုကြိုက်မိ၍ စစ်ပွဲတွင်လုံ့ရူးကာ သေရပုံအကြောင်း–စသည်တို့ဖြစ်လေသည်။*၂

**တေဝီသတိမဝါဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၅၀–ပြည့်နှစ်၊ ဝါဆိုလ (အေဒီ ၁၈၈၈–ခုနှစ်၊ ဇွန်လ)တွင် ဘုန်းတော်ကြီး အရှင်ဉာဏသည် (၂၃)ကြိမ်မြောက် တေဝီသတိမဝါကို လယ်တီတောရကျောင်းမှာတွင် ဝါကပ် တော်မူခဲ့ပါသည်။

မုံရွာသည် ဤနှစ်အတွင်း မြို့သစ်ဖြစ်လာသောအခါ မြို့စည်ကားသာယာရေးအတွက် သက္ကရာဇ် ၁၂၅၀–ပြည့်နှစ်၊ ကဆုန်လဆုတ် ၁–ရက် (အေဒီ–၂၅၊ ဧပြီလ၊ ၁၈၈၈) ခုနှစ်တွင် မြူနီစီပါယ်အဖွဲ့ကိုဖွဲ့စည်းခဲ့ပြီး မုံရွာမြို့လူထု၏ကျန်းမာရေး၊ လမ်းပန်းဆက်သွယ်ရေး၊ လမ်းတံတား၊ ဈေးကြီးဈေးငယ်၊ ဉယျာဉ်ကစားကွင်း၊ သုသာန်စသည်တို့တည်ဆောက်ရန် စီမံချက်များရေးဆွဲ နေကြသည်။*၃

ဤနှစ် မိုးတွင်းကာလ၌ မကြုံစဖူးမိုးသည်းထန်စွာ ရွာသွန်းခဲ့သည့်အတွက် မုံရွာမြို့အလယ်၌ တည်ရှိသော ဆုတောင်းပြည့်မြတ်စွာဘုရားကြီးသည် အရှေ့တောင်ထောင့်အရပ်(အဂ္ဂိထောင့်)မှ ရွှေတောင်ကြီးကျွတ်လွတ်၍ မြေခသည့်အလား ပြိုလဲတော်မူခဲ့လေသည်။*၄

---

*၁ မှန်နန်းမဟာရာဇဝင်တော်ကြီး၊ ဒုတိယတွဲ။ ပြန်ကြားရေးဝန်ကြီးဌာန၊ ရန်ကုန်မြို့။ ၁၉၉၃–ခုနှစ်။ (စာမျက်နှာ–၂၃၃)။

*၂ မှန်နန်းမဟာရာဇဝင်တော်ကြီး၊ ဒုတိယတွဲ။ ၁၉၉၃–ခုနှစ်။ (စာမျက်နှာ–၇၈)။

*၃ Gazetteer of Upper Burma and The Shan States. Part II, Vol.II. (Page-512). အောင်သာ၏ မနေ့ကနှင့် ယနေ့မုံရွာ (ဆောင်းပါး)။ ချင်းတွင်းမဂ္ဂဇင်း။ ၁၉၇၉–ခုနှစ်။ ဖေဖော်ဝါရီလ။ (စာမျက်နှာ–၉၅)။

*၄ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ပုဂ္ဂိုလ်ကျော်များ။ (စာမျက်နှာ–၁၀၁)၌ '၁၂၅၁ (အေဒီ–၁၈၈၉)ခုနှစ်တွင်ပြိုသည်' ဟုလည်းကောင်း၊ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၇၈)၌ '၁၂၅၄ (အေဒီ–၁၈၉၂)ခုနှစ်၌ပြိုသည်' ဟုလည်းကောင်း ဖော်ပြထား၏။

မုံရွာမြို့ ဆုတောင်းပြည့်ဘုရားကြီး

ဆုတောင်းပြည့်စေတီတော်ကြီးသည် မုံရွာဟူ၍ မြို့ရွာအမည်မထင်ရှားမီ ရှေးနှစ်ပေါင်းများစွာကပင် လေကူးရွာထိပ်၌*[၁] တည်ရှိသော ရှေးသမိုင်းဝင်စေတီတော်ဖြစ်သည်။ မူလစေတီတော်၏ဘွဲ့အမည်မှာ ရွှေမုဋ္ဌောဘုရားဖြစ်၏။*[၂]

ထိုမူလဖြစ်သော ရွှေမုဋ္ဌောဘုရားကိုပြုပြင်သူ ဘုရားဒါယကာမှာ (=ပဋိစက္က)ခေါ် ဘသူကြွယ်မင်းဖြစ်သည်။*[၃] ပုဂံခေတ်အနော်ရထာမင်းလက်ထက်က ဘသူကြွယ်မင်းသားသည် မြို့သစ်ရွာသစ်တည်ရန် မင်းကြီးထံခွင့်တောင်းပြီး သလ္လာဝတီမြစ်ကြောင်းအတိုင်းနေရာရှာလာရာ မုံရွာဟုတွင်လာမည့်နေရာဒေသသို့ ရောက်ရှိခဲ့လေသည်။ မုံရွာဖြစ်မည့်နေရာတွင် ရွှေမုဋ္ဌောဘွဲ့မည်ရှိဘုရားကလေးတစ်ဆူသာတည်ရှိပြီးလျှင် ဘုရားဈေးကလေးမှာလည်း စည်ကားနေချိန်ဖြစ်သည်။ ဘသူကြွယ်မင်းသည် ရွှေမုဋ္ဌောဘုရားနီးရှိဈေးကလေး၌ မုန့်ရောင်းနေသော မုန့်သည်မတစ်ဦးကိုမြင်လျှင် ချစ်ခင်နှစ်သက်သည်ဖြစ်၍ ထိုမုန့်သည်မကို မိဖုရားမြှောက်ကာ ထိုအရပ်တွင် မြို့သစ်တည်လေ၏။ မုန့်သည်မကိုအကြောင်းပြု၍ ထိုရွာကို မုန့်သည်မရွာဟု ခေါ်တွင်ခဲ့၏။ နောင်သောအခါ မုန့်သည်မရွာမှ မုန့်ရွာ၊ မုန့်ရွာမှ မုံရွာဟုခေါ်ကြသည်ဟူ၍ အမှတ်အသားရှိကြသည်။*[၄]

ဘသူကြွယ်မင်း၏မိဖုရား မုန့်သည်မသည် ရွှေမုဋ္ဌောစေတီတော်အနီး၌ဈေးရောင်းနေစဉ်အခါက ဤစေတီကလေးသို့ နေ့စဉ်မုန့်လှူပြီး 'တပည့်တော်မသည် ဤစေတီတော်ကို ပြုပြင်နိုင်ရပါလို၏ဘုရား' ဟု ဆုတောင်းလေ့ရှိ၏။ မိဖုရားအဖြစ်သို့ရောက်သောအခါ ဘသူကြွယ်မင်းနှင့်အတူ မူလရွှေမုဋ္ဌောစေတီတော်ကို ဉာဏ်တော် ၄၅-တောင်အမြင့်ရှိစေတီကြီးငုံပြီး ပြုပြင်

---

*၁ အောင်မြတ်(ဗဒုံ)၏ ဗဒုံမြို့မိတ်ဆက်စာတမ်း။ သန်းထွန်းဦးပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၈၅-ခုနှစ်။ (စာမျက်နှာ-၁၁၂)။

*၂ ဤဘုရားကို သီရိဓမ္မာသောကမင်းတည်ခဲ့သော စေတီ(၈၄၀၀၀)တွင်အပါအဝင်ဖြစ်သည်-ဟု ယူဆကြသည်။ သီရိဓမ္မာသောကမင်းကြီးတည်သော (၈၄၀၀၀)သောစေတီတို့ကို 'မုဋ္ဌောစေတီ' ဟုခေါ်ဝေါ်ကြသည်။ တောင်ခွင်သာသနာပိုင်၏ ဂုဠတ္ထဝိနိစ္ဆယ၌ မုဋ္ဌော-အနက်ကို (၁) တစ်စုံတစ်ခုလွှတ်သောနေ့၌တည်သောစေတီ။ လနတ်သားကို ရာဟုအသူရိန်ဖမ်းထား၍ တွေဝေနေချိန်တည်သောစေတီ။ (၂) အုတ်မစီဘဲအပေါက်လွှတ်၍ မုခ်ဦးမုခ်လိုဏ်ပါသောစေတီ။ (၃) မုခ်ဦးမုခ်ကပ်တပ်၍တည်သောစေတီ။ (၄) ထီးမတင်ဘဲ ဦးပြည်းတည်ထားသောစေတီ။ (၅) လက်တစ်ဆုပ်ခန့်ရှိဓာတ်တော်တို့ကိုဌာပနာ၍တည်ထားသောစေတီဟူ၍ အနက် ၅-မျိုးဖွင့်ပြထား၏။ တောင်ခွင်သာသနာပိုင်၏ ဂုဠတ္ထဝိနိစ္ဆယ၊ ပထမအုပ်။ ၁၉၂၈-ခုနှစ်။ (စာမျက်နှာ ၂၉-၃၁)။ အသောကာဝဒါနကျမ်း၌ 'အသောကမင်းကြီး တည်ထားခဲ့သော ထို ၈၄,၀၀၀ သော စေတီတို့ကို ယေဘုယျအားဖြင့် ဓမ္မရာဇိကဟုခေါ်ဝေါ်ကြောင်း' ပြထားသည်။ J.S.Strong' tr. Aśokāvadāna. 1989. Page-109ⁿ.

*၃ အောင်မြတ်(ဗဒုံ)၏ ဗဒုံမြို့မိတ်ဆက်စာတမ်း။ (စာမျက်နှာ-၃၆)။ မုံရွာစန်းမောင်၏ ထူးခြားအံ့ဖွယ်ဗဒုံနယ်။ ၂၀၀၆-ခုနှစ်။ (စာမျက်နှာ-၆)။ ဤဘသူကြွယ်မင်းသည် ကွယ်လွန်ပြီးသည့်နောက် အလုံဘိုးတော်ကြီးအဖြစ်ထင်ရှားခဲ့ပါသည်။

*၄ မဟာဆွေ၏ မုန့်သည်မရွာ(ဆောင်းပါး)။ သူရိယရုပ်စုံသတင်း။ (၁၀-၁-၁၉၃၂)။ အချို့ကမူ မုန့်(တိုင်)ပင်များပေါက်ရောက်နေခြင်းကိုအစွဲပြု၍ မုန့်ရွာဟုခေါ်တွင်ကြောင်းပြဆိုသည်။ တိုးလှ၏ အညတြမုံရွာမှသည်(ဆောင်းပါး)။ မုံရွာဒေသကောလိပ်မဂ္ဂဇင်း။ ၁၉၈၀/၈၁-ခုနှစ်။ (စာမျက်နှာ-၄၈)။

တည်ထားခဲ့လေသည်။ မိမိ၏ဆုတောင်းပြည့်သည်ကိုအကြောင်းပြုပြီး ဘုရားဘွဲ့တော်ကိုလည်း 'ဆုတောင်းပြည့်ဘုရား' ဟု ဘွဲ့တင်လှူခဲ့သည်။ ဘုရားသမိုင်း သံပိုင်း(၁၀)ချက်တို့ကို ကျောက်စာ ရေးထိုးခဲ့သည်။*၁ ရေးမှတ်တမ်းများအရ ဆုတောင်းပြည့်ဘုရားကြီးတွင် ရှေးမင်းအဆက်ဆက် တို့ ဆောက်လုပ်လှူဒါန်းထားခဲ့သော အာရုံခံပြာသာဒ်များရှိလေသည်။

ဆုတောင်းပြည့်ဘုရားပွဲတော်ကို နှစ်စဉ်သီတင်းကျွတ်လပြည့်ကျော် ၇–ရက်နှင့် ၈–ရက်နေ့ များတွင်ကျင်းပပြုလုပ်ခဲ့၏။ ဆုတောင်းပြည့်မြတ်စွာဘုရားကြီးသည် လေ့ကူး–မုံရွာဟု ရွာနှစ်ရွာ အကြားတွင် တည်ရှိသည်။ မုံရွာသို့ ရေလမ်းကုန်းလမ်းဖြင့် ရပ်ဝေးမှလာကြသူများက မုံရွာမြို့ အနီးရောက်လျှင် ဆုတောင်းပြည့်မြတ်စွာဘုရားကြီးကို အဝေးမှလှမ်း၍ ရွှေတောင်ကြီးမြင် လိုက်ရဘိသို့ ရွှေရောင်တဝင်းဝင်းတပြောင်ပြောင်နှင့်ဖူးမြင်လိုက်ကြရသည့်အတွက် ခရီးလမ်းမှာ မောပန်းခဲ့သမျှ အန္တမ်းပြေကာ ကြည်လင်ရွှင်ပြခဲ့ကြရသည်။ ဤသို့ တစ်မြို့လုံးတစ်ရွာလုံးသာမက ဒေသတစ်နယ်လုံးက ကိုးကွယ်ဆည်းကပ်နေကြသော ဆုတောင်းပြည့်မြတ်စွာဘုရားကြီး သက္ကရာဇ် ၁၂၅၀–ပြည့်နှစ် (အေဒီ–၁၈၈၈)ခုနှစ် မိုးနှောင်းကာလ၌ မိုးကြီးရွာသွန်းမှုကြောင့် စေတီလုံးတော်ထိပ်ပိုင်း အားလုံးမြေသို့ခခဲ့ရာ မုံရွာမြို့နယ်တစ်ခုလုံးရှိ ရဟန်းရှင်လူအပေါင်းတို့၏ စိတ်နှလုံးမှာ ယူကြုံးမရဖြစ်ခဲ့ကြရပေသည်။*၂

**သာသနသောဘိနီသိမ်တော်** *၃

ဤနှစ် (အေဒီ–၁၈၈၈)ခုနှစ်အတွင်း လယ်တီတောရကျောင်းတိုက်၌ သာသနာ့အရင်းအမြစ် သိမ်တိုက်တစ်ဆောင်ဖြစ်ပေါ်လာပုံကို ဆက်လက်တင်ပြပါဦးမည်။

လယ်တီတောရကျောင်းတည်စအခါက ကျောင်းဝင်းအတွင်း၌ ကပ်မိုး,ကပ်ကာတဲကျောင်း ကြီးတစ်ဆောင်ကို ထန်းရွက်မိုး,ထန်းရွက်ကာတဲကျောင်းကလေးများက ဝိုင်းရံထားသည့်မြင်ကွင်း ကို တွေ့မြင်ကြရပေလိမ့်မည်။ အသားကျောင်း၊ တိုက်ကျောင်း–ဟူ၍ကားမရှိခဲ့ပေ။ လယ်တီ တောရ၌ သံဃာငါးကျိပ်ကျော် *၄ ရှိလာသောအခါ ကျောင်းနေသံဃာတို့ ဥပုသ်ပဝါရဏာပြုခြင်းမှ စ၍ ကံကြီးကံငယ်များချမ်းသာစွာဆောင်ရွက်နိုင်ရန် သိမ်လိုအပ်လာလေသည်။

---

*၁ အောင်မြတ်၏ ဗဒုံမြို့မိတ်ဆက်စာတမ်း။ ၁၉၈၅–ခုနှစ်။ (စာမျက်နှာ–၁၁၄)။

*၂ လယ်တီဆရာတော်ကြီး၏ ဇမ္ဗူရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၆၀)။

*၃ ဤသိမ်နှင့်စပ်၍ သိမ်အောင်ကျောက်စာစသည့်အထောက်အထားတို့ကို မတွေ့ရပေ။ လယ်တီဆရာတော်ကြီးသမုတ် တော်မူခဲ့သော မူလသိမ်သည် တစ်ထပ်ဖြစ်ပြီး သတ္တမလယ်တီဆရာတော်ဦးဝိလာသလက်ထက်၌ ယခုမြင်တွေ့ရသည့် အတိုင်း သိမ်အဆောက်အဦကို နှစ်ထပ်အဆောက်အအုံအဖြစ်ရောက်အောင်ပြုပြင်ခဲ့သည်ဟု နဝမလယ်တီဆရာတော် အရှင်ကေလာသ (၃၀–၄–၁၉၉၇) နေ့က အမိန့်ရှိတော်မူပါသည်။

*၄ လယ်တီဆရာတော်ကြီးသည် လယ်တီတောရကျောင်း၌ သံဃာအပါး–၈၀ ထက်ပို၍ လက်မခံကြောင်းကို မုံရွာမြို့ မဟာလယ်တီတိုက် နိဗ္ဗာနဒီပနီကျောင်း အရှင်နန္ဒမာလာအမိန့်ရှိသည်။ အရှင်ဝါယာမိန္ဒ၏ မုံရွာနှင့်သာသနာ(ဆောင်းပါး)။ မုံရွာမြို့၊ ရာပြည့်မော်ကွန်းစာစောင်။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၄၁)။



မုံရွာမြို့၊ လယ်တီတောရအတွင်းရှိသိမ်



လယ်တီတောရသိမ်အနီးရှိ စေတီတော်ပုံ



မုံရွာမြို့၊ မဟာလယ်တီကျောင်းတိုက်အတွင်း တစိတ်တဒေသရှုမြင်ရပုံ

လယ်တီတောရ ကျောင်းဘုန်းကြီးအရှင်ဉာဏသည် မိမိတစ်ပါးတည်းသီတင်းသုံးစဉ် အခါက တလုံးတောရသိမ်သို့ကြွ၍ ဥပုသ်ပြုကံဆောင်ခြင်း–စသည်ပြုတော်မူခဲ့ပါသည်။[*၁]

ဘုန်းတော်ကြီးအရှင်ဉာဏမထေရ်မြတ်သည်မူကား ဝိနည်းပိဋကတည်းဟူသော တောတောင်၌ကျက်စားနေသော ဝိနယဓရဝိနယပါမောက်ခြင်္သေ့ကြီးတစ်ဆူဖြစ်တော်မူသည်နှင့်အညီ မိမိ၏ကျောင်းတိုက်အတွင်း၌သမုတ်မည့်သိမ်ကို တစ်စုံတစ်ရာ ဝိစိကိစ္ဆာသက်ဘွယ်မဖြစ်စေဘဲ မနောရထပူရီ အလီလီသောသမ္ဘတ္တိတို့ဖြင့် ဝိနည်းကံတို့ကို စီစဉ်ဆောင်ရွက်တော်မူခဲ့လေသည်။

သိမ်အရာသည် အလွန်ခက်ခဲနက်နဲကြောင်းကို ဘုန်းတော်ကြီးရှင်ဉာဏက တပည့်တို့အား မိန့်ကြားတော်မူခဲ့ဖူးသည်မှာ–

> 'သိမ်အရာမည်သည် အလွန်ခဲခက်လှ၏၊ နက်နဲ၏။ ကျမ်းဂန်လည်းတတ်ပါမှ, အာစရိယလဒ္ဓါပဒေသလည်း ကောင်းလှပါမှ, ဝိနည်းမိုရ်ပုဂ္ဂိုလ်ကြီးများပြုလုပ်သည်ကိုလည်း တွေ့ဖူးကြုံဖူးပါမှ နေရာကျစီရင်တတ်သည်။ တော်ကာလျော်ကာဆရာနှင့် ထိုက်တန်သောအမှုပင် မဟုတ်'[*၂]–ဟူ၍ဖြစ်သည်။

ထိုသို့သိမ်သမုတ်တော်မူရာတွင် ဘုန်းတော်ကြီးသည် နောင်လာဆက်ပွား တပည့်များတို့အား နည်းရစေခြင်းငှာ တိုက်သံဃာအားလုံးကိုခေါ်ယူပြီး အထပ်ထပ်သွန်သင်ပြသနည်းပေးတော်မူခဲ့ပါသည်။

လယ်တီဘုန်းတော်ကြီးသည် လယ်တီကျောင်းတိုက်၏ညီညာပြန့်ပြူးပြီး မြေမြင့်မောက်သောနေရာကို သတ်မှတ်ပိုင်းခြားတော်မူကာ ကျောင်းဒါယကာတို့ကို အစိုးရမင်းထံ ဝိသုံဂါမသိမ် အမိန့်ခံစေတော်မူသည်။ ထိုစဉ်အခါက မင်းပြောင်းမင်းလွဲဖြစ်ပြီးစအခါဖြစ်၍ မြန်မာမင်းလက်ထက်က သိမ်သမုတ်ရန်မြေပေးပုံနှင့်မတူ၍ ကုက္ကုစ္စသံသယများစွာဖြစ်ကြရလေသည်။[*၃]

လယ်တီတောကျောင်းတွင်သိမ်သမုတ်သည့်အခါ ကျောင်းတိုက်မြေတစ်ခုလုံးကိုခြုံပြီး မသမုတ်မူဘဲ ကျောင်းတိုက်၏အစိတ်အပိုင်းတစ်ထောင့်တစ်ကွက်ကိုယူ၍ ခဏ္ဍသိမ်[*၄] အဖြစ် သမုတ်တော်မူခဲ့ပါသည်။ အရှင်မြတ်သည် 'သိမ်အတွင်းသို့ မာတုဂါမ မဝင်ရ၊ ဝင်ခွင့်မရှိ'ဟူသော အယူကိုကား လက်ခံတော်မူခြင်းမရှိကြောင်းကို အောက်ပါရေးသားချက်တို့ဖြင့် ထောက်ဆသိနိုင်သည်။

---

*၁ တလုံးတောရသိမ်သည် ယခုအခါ မုံရွာမြို့ ဘုန်းစိုးကျောင်းအတွင်းရှိ တလုံးကမ္ဘာအေးရစ်မျက်နှာကိုးဆူစေတီ၏ အနောက်မျက်နှာ ကြာသပတေးထောင့်၌တည်ရှိပြီး သိမ်နိမိတ်များကို ပြုပြင်စိုက်ထူထားပါသည်။ တလုံးကျောင်းဝင်းအတွင်းရှိ မူလတလုံးသိမ်မှာလည်း ဂျပန်ခေတ်၌ ကျောင်းဝင်းအတွင်း ဂျပန်များတပ်စွဲထားရာမှ ပျက်စီးခဲ့ရသည်ဟု တလုံးတောရ ဆရာတော်ဦးသီရိန္ဒ(၁၀–၈–၁၉၈၄)နေ့က မိန့်ကြားပါသည်။

*၂ လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁၅၃)။

*၃ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ သီမာဝိနိစ္ဆယ–ကိုရှုပါ။ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ ဝိသုဒ္ဓါရုံအဆုံးအဖြတ်။ ၁၃၇၉–ခုနှစ်။ (စာမျက်နှာ–၃၉၆)။

*၄ ခဏ္ဍ + သီမာ = ပိုင်းဖြတ်အပ်သော (အပိုင်းအခြားရှိသော) + သိမ်–ကိုဆိုလိုသည်။ တစ်နည်း သိမ်ငယ်–ဖြစ်သည်။ ယခု မဟာလယ်တီတိုက်အတွင်းရှိသိမ်သည် သံဃာနှစ်ကျိပ်စုဝေးထိုင်နေနိုင်လောက်သောသိမ်ဖြစ်ကြောင်း တွေ့ရသည်။

ဘုရားလက်ထက်တော်၌ ရာဇဂြိုဟ်ပြည်မှာ တစ်ဆယ့်ရှစ်ရပ်သောကျောင်းတိုက်ကြီးတို့ကို တစ်သိမ်တည်းပြု၍သမုတ်၏။ သီဟိုဠ်ကျွန်း၌ အရှင်မဟိန္ဒထေရ်သည် အနုရာဓမြို့ပါခြုံ၍သမုတ်၏။ အနုရာဓမြို့သည် သိမ်တွင်းကျ၏။ ယခုကာလ၌ကား သိမ်ဆိုလျှင် လူများမဝင်ရဟု ထင်မှတ်ကြ၏။ မာတုဂါမများ မဝင်ဝံ့ရှိကြ၏။ အနုရာဓမြို့သူတို့ကား သိမ်တွင်း၌နေကြရကုန်၏–*၁ ဟုဖြစ်သည်။

'သဒ္ဒါမှာလိင်–သာသနာသိမ်'ဟူသော ဆိုရိုးရှိသည်နှင့်အညီ တပည့်အပေါင်းတို့အား သိမ်သမုတ်ပုံသမုတ်နည်းတို့ကိုသာမက သိမ်နိမိတ်ကြားပုံကြားနည်း၊ *၂ သိမ်အောင်စာ *၃ ရေးသားနည်းတို့ကိုပါ အာစရိယမုဋ္ဌိ ဆရာ့လက်ဆုပ်ရအောင် ပြသပေးတော်မူခဲ့ပါသည်။

ဤနည်းဖြင့် လယ်တီတောကျောင်းဘုန်းတော်ကြီးအရှင်ဉာဏသည် တပည့်သံဃာငါးကျိပ်ကျော်တို့နှင့်တကွ သာသနာတော်တွင်အလွန်အရေးကြီးသော သာသနဝုမ္ဗိ, သာသနဝေပုလ္လ, သာသနသောဘိနိခဏ္ဍသိမ်တော်ကြီးကို လယ်တီတိုက်ကြီးအတွင်း ၁၂၅၀–ပြည့်နှစ် (အေဒီ–၁၈၈၈)ခုနှစ်တွင် ဝိနည်းကံနှင့်လျော်ညီစွာ သမုတ်တော်မူခဲ့ပါသည်။*၄

## သိက္ခာထပ်သောအလေ့

လယ်တီဘုန်းတော်ကြီးသည် လယ်တီတိုက်အတွင်းရောက်ရှိလာကြသော ရှင်ရဟန်းတို့ကို ဥပဇ္ဈာယ်*၅ ထပ်၍ယူစေခြင်း၊ ဥပဇ္ဈာယ်ရှိပါက နိဿယည်းဆရာယူစေခြင်း၊ အချို့ကို သိက္ခာထပ်ခြင်းပြုတော်မူလေ့ရှိသည်။

ဥပဇ္ဈာယ်ယူခြင်းနှင့်စပ်၍ မူလဥပဇ္ဈာယ်ဆရာအသက်ထင်ရှားရှိနေပါက ထိုဥပဇ္ဈာယ်ဆရာနှင့်ပင် ကမ္မဝါဖတ်ပေးပြီး၊ ဥပဇ္ဈာယ်ဆရာလူထွက်သည်ဖြစ်စေ၊ ပျံလွန်သည်ဖြစ်စေဖြစ်ပါမူ ဥပဇ္ဈာယ်အသစ်ကိုယူစေသည်။

ရံခါ၌ ဘုန်းတော်ကြီးကိုယ်တော်တိုင်လည်း ဥပဇ္ဈာယ်အဖြစ် ချီးမြှောက်တော်မူပါသည်။ ဥပဇ္ဈာယ်ရှိပြီးဖြစ်သော်လည်း ဥပဇ္ဈာယ်နှင့်ဝေးသောအရပ်၌နေကြသည်ဖြစ်၍ ဘုန်းတော်ကြီးထံ

---

*၁ လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁၄၃)။

*၂ လယ်တီဆရာတော်ကြီး၏ သိမ်နိမိတ်ကြားအမေးအဖြေကို လယ်တီပဏ္ဍာပေါင်းချုပ်၊ ဒုတိယတွဲ။ (စာမျက်နှာ ၁၁၃–၁၁၆) တွင်ရှုပါ။

*၃ လယ်တီဆရာတော်ကြီး၏ သိမ်အောင်သြဘာစာရေးနည်းနမူနာပုံစံကို လယ်တီပဏ္ဍာအဖြေပေါင်းချုပ်၊ ဒုတိယတွဲ။ (စာမျက်နှာ ၁၁၇–၁၂၁)တွင်ရှုပါ။

*၄ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၃၁)။

*၅ ဥပဇ္ဈာ(ယ) (ပါဠိ)။ အပြစ်ကြီးငယ်ကိုကပ်၍ရှုတတ်သောသူ။ တပည့်ရဟန်းသာမဏေငယ်တို့၏ အပြစ်ကြီးငယ်တို့ကို ကပ်၍ရှုတတ်, သွန်သင်ဆုံးမတတ်, မိဘအရာ၌တည်သော, တာဝန်ခံဖြစ်သောရဟန်း။ ဥပဇ္ဈာယ်ဆရာ–ဟု ခေါ်သည်။

နိဿယည်း*[၁] ယူကြရသည်။ နိဿယည်းကင်း၍ကားနေခွင့်မပြုပေ။ နိဿယမုတ္တကအင်္ဂါ (ဝိ၊ဋ္ဌ ၃။၅၄။)နှင့်ညီစေလို၍ ဘုန်းတော်ကြီးမိန့်ဆိုလေ့ရှိသည်မှာ–

ရဟန်းဖြစ်ပြီးသည်မှ ငါးနှစ်အတွင်း၌ ဥပဇ္ဈာယ်ဆရာ၊ နိဿယည်းဆရာ နှစ်ပါးတို့တွင် တစ်ပါးပါးကိုမှီတွယ်၍သာနေရသည်။ မိမိဥပဇ္ဈာယ်ဆရာနေသော တိုက်တာမှ တစ်ပါးသောတိုက်တာ၌နေသောအခါ နိဿယည်းဆရာအင်္ဂါမြောက် သော ဝိနည်းမိုရ်ပုဂ္ဂိုလ်ထံမှာ နိဿယည်းယူ၍နေရသည်'*[၂] –ဟူ၍ဖြစ်သည်။

ထို့ပြင် ရဟန်းငယ်တို့အားလည်း သုံးလေးကြိမ်ထက်မနည်း သိက္ခာထပ်ပေးတော်မူလေ့ ရှိသည်။ သိက္ခာထပ်ခြင်းသည် ဖြစ်ပြီးသားရဟန်းကို ဥပသမ္ပဒါကမ္မဝါစာဖြင့် ထပ်မံဖတ်ရွတ် ပြုလုပ်ခြင်းဖြစ်၍ 'ကံထပ်ခြင်း'ဟုလည်းခေါ်၏။ သိမ်ထပ်ဝင်ရခြင်းဖြစ်၍ 'သိမ်ထပ်ခြင်း'လည်း ခေါ်ပြန်၏။ မူလရဟန်းခံစဉ်အခါက အသက်နှစ်ဆယ်မပြည့်ခဲ့ဟု သံသယဖြစ်ခဲ့ပါမူ၊ သို့မဟုတ် မူလရဟန်းဖြစ်ရာ သိမ်,ဉတ်,ကမ္မဝါ,ကာရကသံဃာတို့နှင့်စပ်၍သံသယဖြစ်ခဲ့ပါမူ၊ ပုနောပသမ္ပဒါ ခေါ် တစ်ဖန် ကံထပ်ခြင်း,သိမ်ထပ်ခြင်း,သိက္ခာထပ်ခြင်းပြုနိုင်လေသည်။ ထိုသို့တစ်ဖန် သိမ် ဝင်၍သိက္ခာထပ်ခြင်းကြောင့် ရှေးရှေးကယုံမှားရှိခဲ့သော် သံသယကင်းစင်ကာ ယခင်က ရဟန်း မဖြစ်ခဲ့ပါမူ ရဟန်းအဖြစ်သို့ရောက်ရှိသွားပြီးလျှင်၊ ရဟန်းဖြစ်ခဲ့ပါမူကား 'မြဲရာသံစွဲ၊ ကြပ်ရာ သတ်ပင်း'ဆိုသကဲ့သို့ ဒဠှီကမ္မမြဲမြံခြင်းသို့ရောက်လေတော့သည်။*[၃]

လယ်တီဘုန်းတော်ကြီးကမူ သိက္ခာထပ်ရာ၌ ဒဠှီကမ္မဖြစ်စေရန်ကိုသာရည်ရွယ်၍ ဆောင် ရွက်ခြင်းဖြစ်ပြီး ထိုအကြောင်းနှင့်စပ်၍ မိန့်ကြားတော်မူသည်မှာ–

ဒဠှီကမ္မဖြစ်စေခြင်းငှာ ဆယ်ဝါမရမီအတွင်း၌ ဆရာကောင်းအမျိုးမျိုးတို့နှင့် အကြိမ်ကြိမ်အခါခါရဟန်းထပ်ခြင်းသည် အလွန်ကောင်းမြတ်သောအမှုဖြစ်ပေ၏။ ငါတို့တပည့်တပန်းများမှာ သုံးကြိမ်အောက်မနည်းစေရ၊ ရဟန်းထပ်ရိုးပြု၍ထား၏'*[၄]– ဟူ၍ဖြစ်ပါသည်။

---

*[၁] နိဿယ (ပါဠိ)။ နည်းယူရန် မှီခိုနေအပ်သော ဆရာ–ရဟန်း။ နိဿယော ဒါတဗ္ဗော (အံ၊၂။၂၃၈။) တိ အာစရိယေန ဟုတ္វာ နိဿယော ဒါတဗ္ဗော– အံ၊ဋ္ဌ၊၃။၈၅။

*[၂] လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်ကျမ်း။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁၃၇)။

*[၃] ကလျာဏီကျောက်စာ၌ 'သီရိလင်္ကာတွင် သိက္ခာထပ်ကြရာတွင် 'ဂိဟိဘာဝေ ပတိဋ္ဌာပေတွာ' စသည်ဖြင့် မူလသိက္ခာကိုစွန့် လူဝတ်လဲပြီးမှ သိက္ခာသစ်ကိုယူသည်'ဟုပြ၏။ Epigraphia Burmanica. Vol.III., Part.II. 1928. Page-57, 128. ဘုရားဖြူဆရာတော်၏ ကလျာဏီကျောက်စာပါဋ္ဌနိဿယ။ သုဓမ္မဝတီစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၃၈–ခုနှစ်။ (စာမျက်နှာ–၂၀၄)။ တောင်ဘီလာဆရာတော်က– ဝိနယာလင်္ကာရဋီကာ၊ ကမ္မာကမ္မဝိနိစ္ဆယကထာအပိုင်း၌ မူလ ဥပသမ္ပဒကံကို သံသယရှိ၍ ပဋ္ဌင်းထပ်မံခံခြင်းမဟုတ်ဘဲ ဒဠှီကမ္မဖြစ်စေရန်သာ ပဋ္ဌင်းထပ်ခံခြင်းမျိုးဖြစ်၍ လူဝတ်လဲရန် မလို'ဟု ပြဆိုထား၏။ ဝိနယာလင်္ကာရ၊၂။၂၇၀။

*[၄] လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်ကျမ်း။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁၃၇)။ သိက္ခာထပ်ခြင်းနှင့်စပ်၍ သီရိလင်္ကာကျွန်း သာဝတ္ထိရွာ ရှင်ဝိမလက ရဟန်းဖြစ်ပြီးသောပုဂ္ဂိုလ်ကံထပ်ခြင်းသည် အကျိုးရှိ,မရှိအမေးကိုဖြေဆိုသော ဒဠှီကမ္မဝိနိစ္ဆယ အမည်ရှိကျမ်းတစ်စောင်ကို လယ်တီဆရာတော်ကြီးရေးစီရင်ထားခဲ့၏။ ထိုကျမ်းပုံနှိပ်အဖြစ်မရောက်ခဲ့ဘဲ မုံရွာမြို့ မဟာ လယ်တီတိုက်အတွင်းကျောက်စာ ၃–ချပ် (ကျောက်စာအမှတ်–၉၈၊ ၉၉၊ ၁၁၇) ရေးထိုးထား၏။ မောရတုဝရွာ အမ္ဗလ ဂေါဒဒေဝနန္ဒ မဟာမိကာယ ဥပသံဃရာဇာ အရှင်သာသနဝံသလင်္ကာရကဝိဓဇပြုစုသော ဒဠှီကမ္မဝိနိစ္ဆယကျမ်း (သီရိ လင်္ကာမူ)ကိုလည်း ၁၉၃၀–ပြည့်နှစ်၊ ကိုလံဘိုမြို့၊ ဝိဇ္ဇာသာဂရပုံနှိပ်တိုက်မှရိုက်နှိပ်သည်။

**ထီ *၁ မေတ္တာစာ**

သက္ကရာဇ် ၁၂၅၀–ပြည့်နှစ် (အေဒီ–၁၈၈၈)ခုနှစ်တွင် မုံရွာမြို့၌ မြူနီစီပါယ်အဖွဲ့ ဖွဲ့စည်းတည်ထောင်နိုင်ခဲ့သည့်အတွက် မြို့ရွာစည်ပင်သာယာလာသကဲ့သို့ ထိုမြူနီစီပါယ်အဖွဲ့၏ခွင့်ပြုချက်ဖြင့် အခွန်ပေး၍ဖွင့်လှစ်ရောင်းချသော မုံရွာကမ်းနားရှိ သံဆိုင်ပိုင်ရှင် ကုလားဘောလာ၏ အရက်ပုန်းဆိုင်သည်လည်း ပေါ်ပေါ်ထင်ထင် လိုင်စင်ရအရက်ဆိုင်ဖြစ်လာ၏။ မကြာမီ ဘိန်းဆိုင်တစ်ဆိုင် ပေါ်လာပြန်သည်။*၂ ဗြိတိသျှတို့သည် နယ်မြေငြိမ်ဝပ်ပိပြားရေးအတွက် မိမိတို့အား တွန်းလှန်မည့်ပုဂ္ဂိုလ်တို့ကို လက်နက်စွဲကိုင်၍ တင်းတင်းကြပ်ကြပ်ဖိနှိပ်အုပ်ချုပ်ထားသကဲ့သို့ ကျန်သော မြန်မာလူမျိုးတို့ကိုမူကား လူညွှန့်တုံးစေရန်အတွက် အရက်ဆိုင်, ဘိန်းဆိုင်တို့ကိုသာမက တစ်ဖက်တစ်လမ်းက ကစားဝိုင်းများကိုပါ ဖွင့်လှစ်ပေးခဲ့သည်။

မုံရွာမြို့ဆိပ်ကမ်းသည် ချင်းတွင်းမြစ်ရိုး၌ထင်ရှားသောလှေဆိပ်မြို့ကြီးဖြစ်ပြီးလျှင် ထိုခေတ်က ရေကြောင်းကသာ စီးပွားရေးအရကူးသန်းရောင်းဝယ်မှုများစွာပြုကြသည့်အလျောက် လှေသူကြီးများစီးပွားရေးကောင်းကြရာ ဤမြို့၌လှေနားသခိုက် ကစားဝိုင်းများတွင် လောင်းကစားရင်း အပန်းဖြေကြသည်။ အထူးသဖြင့် လှေကူးတစ်ဝိုက်၌ လောင်းကစားဝိုင်းများစွာ ပေါ်ပေါက်လာသည်။ ဘုရားပွဲ,ကျောင်းပွဲကိုအကြောင်းပြု၍လည်း စာရေးတံမဲထီမျိုးလည်းပေါ်လာ၏။

စီးပွားရေးကောင်းကြသဖြင့် အပျော်လောင်းကစားကြရာမှ ကာလကြာလတ်သော် စီးပွားရေးထိခိုက် အကျိုးယုတ်လောက်သောအဖြစ်သို့ရောက်ခဲ့ကြလေသည်။ မြေပေါင်၍, အိမ်ပေါင်၍, လှေပေါင်၍ လောင်းကစားကြသည်။ အချို့ကမူ လောင်းကစားဝိုင်း၌ရှုံးပါမူ မိမိပိုင်အိမ်ပေါ်မှဖြစ်စေ၊ လှေပေါ်မှဖြစ်စေ ဘာပစ္စည်းမှမယူဘဲ ခန္ဓာ၍ဆင်းပေးမည်ဟုကတိထားပြီး 'ခုနစ်ဆင်းလောင်းကြေး' မျိုးဖြင့် မိုက်မိုက်မဲမဲလောင်းကစားကြ၏။

ဤသို့ လှေကူးမုံရွာမြို့သူမြို့သားများ လောင်းကစားမက်နေကြပုံ၊ လောင်းကစားမှုကြောင့် ဘေးတွေ့ကြရပုံတို့ကို လယ်တီတောရဘုန်းတော်ကြီးထံသို့ လှေသူကြီးဦးထွန်းသာ လျှောက်ထားသောအခါ ဘုန်းတော်ကြီးက မိမိတို့ငယ်စဉ် မန္တလေးရွှေမြို့တော်၌နေစဉ် သီပေါမင်းဖွင့်သော'ထီတော်' ကိုအကြောင်းပြုပြီး ပြည်သူအများစီးပွားပျက်ခဲ့ရပုံတို့ကို ပြန်လည်မြင်ယောင်တော်မူလာပါသည်။

မန္တလေးရတနာပုံခေတ်ကပေါ်ပေါက်ခဲ့သော 'ထီတော်'ဆိုသည်မှာ သီပေါမင်းလက်ထက် ယောမင်းကြီးဦးဘိုးလှိုင် အတန်တန်တားနေသည့်ကြားမှပေါ်ထွက်လာသော လောင်းကစားနည်းတစ်မျိုးဖြစ်သည်။ သက္ကရာဇ်၁၂၄၀–ပြည့်နှစ်၊ တပေါင်းလ (အေဒီ–၁၈၇၉၊ မတ်လ)၌ ရွှေမြို့တော်

*၁ ထီ–ဝေါဟာရသည် မြန်မာစကားစင်စစ်မဟုတ်၊ အင်္ဂလိပ်စကား သို့မဟုတ် တရုတ်စကားဖြစ်လိမ့်မည်။ အင်္ဂလိပ်စကား Lottery (လော့ထရီ) မှ 'လော်ထို > ထီ' ဖြစ်သည်– မြကေတု၏ သီပေါမင်းလက်ထက်ထီ(ဆောင်းပါး)၊ နန်းခလှေ မှတ်တမ်းများ။ ၁၉၆၆–ခုနှစ်။ (စာမျက်နှာ–၆၆၁)။

*၂ တိုးလှ၏ အညာတြမုံရွာမှသည်(ဆောင်းပါး)။ မုံရွာဒေသကောလိပ်မဂ္ဂဇင်း၊ ၁၉၈၀–၈၁။ (စာမျက်နှာ–၅၁)။

(မန္တလေး)၌ ထီရုံတည်ထောင်ပြီးလျှင် ထီလက်မှတ်တစ်စောင်ကို ငွေဒင်္ဂါး ၅-ကျပ်ဖြင့် လက်မှတ်ပေါင်း-၁၂,၀၀၀ ရောင်းချရာ၊ ငွေကျပ်-၆၀,၀၀၀ ရရှိလေသည်။ ထိုငွေခြောက်သောင်းတွင် ဘုရင်က ငွေတစ်သောင်းနုတ်ယူထားလိုက်သည်။ ပြီးမှ ကျန်ငွေငါးသောင်းကို ထီဖွင့်လှစ်ပြီ ဟုကြေညာကာ အောင်ဘာလေရွှေသီးနှင့်တိုက်ဆိုင်သူ ဂဏန်းရှင်ကို ဆုတော်ငွေအဖြစ်ပေး၍ သူဌေးအရာခန့်ထားသော ထီတော်ဖြစ်သည်။*၁ နိုင်ငံတော်အတွင်း ပစ္စည်းပေါများသောသူဌေး အများပေါ်ထွန်းရန်ဟူသောရည်ရွယ်ချက်ဖြင့် ရွှေမြို့တော်အနောက်ပြင် ဈေးချိုကြီးတောင်ဘက်ထောင့် ကိုးခန်းကြီးအုတ်တိုက်ကြီးတွင် မှူးတော်မတ်တော်တို့ကြီးကြပ်၍ ပထမအကြိမ်ထီဖွင့်ရာ မန္တလေးမြို့ ကွမ်းရေတန်းရပ်နေ မအုံးက ငွေငါးသောင်းရရှိသည်။*၂

ထီတော်ဖွင့်လှစ်ခြင်းကြောင့် ရရှိသောအကျိုးများနှင့်စပ်လျဉ်း၍ ရတနာပုံခေတ်သုတေသီ ရွှေကိုင်းသားဆရာတော်က ဤသို့မှတ်တမ်းတင်ခဲ့ပါသည်။

> ၁၂၄၁-ပြည့်နှစ်၊ တပေါင်းလ (အေဒီ ၁၈၈၀-ပြည့်နှစ်၊ ဖေဖော်ဝါရီလ) တွင် နေပြည်တော်၌ ထီရုံများမှိုပေါက်သလိုပေါ်လာခြင်းသည်လည်း တိုင်းပြည်၏စီးပွားရေးအခြေအနေ ဘယ်အဆင့်တွင်ရောက်ရှိနေသည်ကို တိုင်းတာပြသကဲ့သို့ရှိနေပေသည်။ ပထမထီတစ်ရုံမှ ဆယ်ရုံအထိတိုးတက်လာပြီး ထိုထီဆယ်ရုံက တစ်လလျှင် ဆယ်ကြိမ်ကျစီဖြင့် အကြိမ်-၁၀၀ ဖွင့်ရသည်။ တစ်ကြိမ်လျှင် ငွေ-၁၂,၀၀၀ နှင့် အခွန်တော်တစ်သိန်းနှစ်သောင်းကို လစဉ်ဆက်ရသည်။ ဘုရင့်ငွေတိုက်တော်တို့ တစ်လတစ်လ ဘဏ္ဍာတော်တစ်သိန်းနှစ်သောင်း မှန်မှန်ဝင်နေသလောက် တိုင်းသူပြည်သား ဆင်းရဲသားတို့မှာကား ထီကိုအကြောင်းပြု၍ လုံးပါးပါးပြီး ကြွေးတင်ကျွန်ဖြစ်ဘဝသို့ရောက်ကုန်ကြတော့ရာ ၁၂၄၇-ခုနှစ်၊ ပြာသိုလ (အေဒီ ၁၈၈၆-ခုနှစ်၊ ဇန်နဝါရီလ)တွင် ထီရုံများကို ပြန်လည်ရုပ်သိမ်းပစ်လိုက်တော့သည်-*၃ ဟူ၍ဖြစ်သည်။

သီပေါမင်းလက်ထက်ဖွင့်လှစ်သောထီတော်နှင့်စပ်လျဉ်း၍ ဒွါရအုတ်ဖိုဆရာတော်ဘုရားကြီး မိန့်တော်မူသည်မှာ-

> သူပြုလုပ်အပ်သော ထီသည်ပင် သူ့ကိုပျက်စီးစေလတ္တံ့သော ပုဗ္ဗနိမိတ်ဖြစ်တော့သည်။ ထီ-ဟူသောအက္ခရာသည် နံအားဖြင့်စနေနံ၊ မင်းကလည်း စနေသား။ အက္ခရာသင်္ချာဖြင့် (၇)ဂဏန်း၊ အဘိဓမ္မာနည်းအားဖြင့် 'ထီ(ဋီ)' နောင် 'ဘင်(ဘဂ်)'

---

*၁ မြကေတု၏ သီပေါမင်းလက်ထက်ကထီ(ဆောင်းပါး)။ နန်းစလေ့မှတ်တမ်းများ။ ၁၉၆၆-ခုနှစ်။ (စာမျက်နှာ-၆၆၆)၊ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈-ခုနှစ်။ (စာမျက်နှာ-၅၁၄)။

*၂ ထီတော်ဖွင့်ရာ၌ ပထမဆုံးထီပေါက်သူ မအုံးသည် စာရေးဆရာကြီးဟံသာဝတီဦးဘရင်၏ မိခင် ဒေါ်ချိန်အုံးဖြစ်သည်၊ ဟံသာဝတီဦးဘရင်၏ဦးဘရင်။ မာဃစာပေ၊ ရန်ကုန်မြို့။ ၁၉၇၃-ခုနှစ်။ (စာမျက်နှာ-၃၅)။

*၃ ရွှေကိုင်းသား၏ အနှစ်တစ်ရာပြည့်မန္တလေး။ ၁၉၅၉-ခုနှစ်။ (စာမျက်နှာ-၂၀၅)။

သာဖြစ်သောကြောင့် ငါနိမိတ်ဖတ်ရလျှင် (၇)နှစ်၊ (၇)လ၊ (၇)ရက်ထက် နန်းသက် မလွန်နိုင်။ ဓီ=ဟူသော နိပါတ်ပုဒ်၏ကာရိယဖြစ်နိုင်၍ 'စက်ဆုပ်ရွံရှာဖွယ်'အနက် ရှိသောကြောင့် ပျက်စီးသောအခါလည်း သူတစ်ပါးပျက်သည်နှင့်မတူ၊ ဓီ–အနက်အရ စက်ဆုပ်ရွံရှာဖွယ်ပင်ပျက်စီးလတ္တံ့–ဟူ၍ဖြစ်ပါသည်။*၁

သီပေါမင်းလက်ထက် ထီတော်ပေါ်သောခေတ်တွင် ရဟန်းတော်တို့လည်း ထီထိုးမှုတွင် ပါဝင်ကြသောကြောင့် မဟာဝိသုဒ္ဓါရာမဆရာတော်ကြီးက ထီဝိနိစ္ဆယစာတမ်း၌–

'ထီ'ကို ထ,ဆင့်ထူးဖြင့် ထီ–ဟုရေးလျှင် 'ထီနံ ဘာဝေါ ဒုရာဇာနော'ဟူသော မာဂဓ၊ 'ကူပေါဒကံ ဝဋ္ဋစ္ဆာယာ၊ သာမာ ထီ က္ကဋ္ဌကာလယံ။ သီတကာလေ ဘဝေ ဥဏှံ၊ ဥဏှကာလေ စ သီတလံ'ဟူသော သက္ကတ၊ နှစ်ပါးလုံး၌ပင် မိန်းမကိုဟော၏။ (မိန်းမ–ဟုအနက်ထွက်၏။) မိန်းမလိုချင်,သားမယားမွေးချင်လို့ ထီထိုးသည်ဟု အဓိပ္ပာယ်ရ၏။ ဌ,ဝမ်းဘဲဖြင့်၊ ဌီ–ဟုရေးလျှင် 'ဥပ္ပါဒဋ္ဌိတိ ဘင်္ဂဝသေန ခဏတ္တယံ ကေစိတ္တက္ခဏံ နာမ' ဟူသည်နှင့်အညီ ပျက်ခြင်းဘင်သို့ ရှေးရှု၍တည်နေသော ဌီ–ကိုဟော၏။ ပျက်စီးတော့မည့်ပုဗ္ဗနိမိတ်ဖြစ်လာ၍ ဌီထိုးသည်ဟုအဓိပ္ပာယ်ရ၏။

အလောင်းအစား ကစားပွဲလိုက်စားခြင်းကို ပျက်စီးကြောင်းဟု သိင်္ဂါလောဝါဒ သုတ်၌ ဘုရားသဗ္ဗညုလည်းဟောတော်မူ၏။ သာသနာတော်တွင်း ရဟန်းဖျင်းများမှာ 'ထီ, ဌီ' အက္ခရာနှစ်ပါးဖြင့်ပင် ကောင်းစားဖို့နိမိတ်မမြင်၊ ပျက်စီးဖို့နိမိတ်သာထင် လာသည်။'

ဟူ၍ ရေးသားတော်မူပြီးလျှင်၊ ထီထိုးလောင်းကစားမျိုးသည် အဆုံးအဖြတ်ခက်ကပ်ပွေရှုပ် လှသဖြင့် မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးက တိုက်တွင်းဥပဒေအဖြစ် အောက်ပါအတိုင်းမိန့်ကြား တော်မူခဲ့သည်မှာ–

...ငါတို့တိုက်က ထီပွဲကစားရာဝင်သော ရဟန်းသာမဏေဖျင်းများပေါ်လာ လျှင် ကျောင်းသားကျင့်ဝတ်ဆယ်ပါးတွင် 'ကစားမျိုးလိုက်၊ ကျောင်းသားမိုက်၊ ကျောင်း၌မနေရပါဘုရား'ဟုပါဝင်၍ ကျောင်းသားကိုပင်နှင်ထုတ်ရသေး၏။ ရဟန်း သာမဏေများကိုကား ဆိုဖွယ်ရာမရှိ။ တိုက်တာဂိုဏ်းဂဏမှအပ နှင်ထုတ်ရမည်။ ထိုထိုးသောပုဂ္ဂိုလ်ကို သိလျက်နှင့် တိုက်ကြပ်, တိုက်ကြပ်အကြီးအကဲများထံ မလျှောက်ထားဘဲ အလိုတူသိဝှက်ထိမ်ချန်၍ထားသောပုဂ္ဂိုလ်များကိုလည်း နှံနာ လောက်အောင် ဒဏ်ပေးရမည်...ထို့ကြောင့် ထီပေါက်သူဖြစ်စေ,မပေါက်သူဖြစ်စေ ထီထိုးသည်ဟုဆိုလျှင် နှင်ထုတ်ရမည်' –ဟူ၍ဖြစ်သည်။*၂

*၁ သိရိသောဘန၏ မဟာဒွါရနိကာယသာသနဝံသဒီပနီ။ လယ်တီမဏ္ဍိုင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၃၆–ခုနှစ်။ (စာမျက်နှာ–၄၇၉)။ အဝတ်ဖိုရ်ဆရာတော်ကြီးမိန့်ကြားသည့်အတိုင်း သီပေါမင်းသည် နန်းစည်းစိမ် ၇–နှစ်၊ ၁–လ၊ ၁၇–ရက်၌ စည်းစိမ်မှ လျှောကျကာ တိုင်းပြည်အလုံး မိစ္ဆာဒိဋ္ဌိမင်းလက်ရောက်၍ သုံ့ကျွန်ဖြစ်ခဲ့ရလေသည်။

*၂ အရှင်ပဏ္ဍိတထေရ်၏ ရွှေကျင်နိကာယသာသနာဝင်။ ၁၉၆၃–ခုနှစ်။ (စာမျက်နှာ ၂–၅၁၇)။

သီပေါမင်းဖွင့်သောထီတော်ကို မင်းမိဖုရား၊ မင်းညီမင်းသားမှူးမတ်တို့လည်း ပါဝင်ထိုးကြလေသေးသည်။ ထိုသို့ ထီကိုသဲသဲမဲမဲကြိုးစားထိုးသည့်မင်းသမီးတို့တွင် ကျောက်ပန်းတောင်းမြို့စားမင်းသမီးလည်းအပါအဝင်ဖြစ်ရာ ကျောက်ပန်းတောင်းမင်းသမီးရဟန်းခံထားသော စစ်ကိုင်းတောင်ရိုး အနောက်ပရမက္ကမချောင်ဘုန်းကြီးဦးအာစရက မိမိရဟန်းအမကို 'ယခု ရွှေထီသည် လိမ်လည်ကောက်ကျစ်၍ သူတော်ကောင်းထီမဖြစ်၊ ဆင်းရဲပင်ပန်းရုံသာ သံသရာဝဋ်လည်ရုံသာ ဖြစ်ချေသည်။ သူတော်ကောင်းထီအစစ်ဖြစ်သည့် ဒါန,သီလ,ဘာဝနာ ထိုးကြေးသုံးဖြာဖြင့် နိဗ္ဗာန်ရုံတော်ကြီးအပါ ၁၆–ခုရုံတော်မှာ ကြိုက်နှစ်သက်ရာထိုးပါရန်' ဟူသော တရားထုံးပြ အဆုံးအမ 'ဝမ္မောဝါဒထီကိန်းမေတ္တာစာ' ကိုရေးသားကာ ဆုံးမသတိပေးခဲ့ဖူးလေသည်။*၁

သက္ကရာဇ်–၁၂၄၁ (အေဒီ–၁၈၈၀) ခုနှစ်၌ သီပေါမင်းဖွင့်သော ထီသည် ၅–နှစ်သာခံ၍ သက္ကရာဇ်–၁၂၄၇ (အေဒီ–၁၈၈၆) ခုနှစ် ပြာသိုလတွင် ပိတ်လိုက်ရသော်လည်း မြန်မာလူမျိုးတို့သန္တာန်တွင် အမြစ်တွယ်သွားသော ထိုထီထိုးခြင်းလောင်းကစားမှုစိတ်ဓာတ်သည်ကား ရှုတ်ချည်း ပျောက်ကွယ်၍မသွား၊ တငွေ့ငွေ့အကင်းမသေရှိခဲ့ပေ၏။

ထိုမီးခဲပြာဖုံးဖြစ်နေသော ထီလောင်းကစားမှုကိစ္စသည် ယခုအခါ မုံရွာဒေသတစ်ဝိုက်တွင် ပေါ်လာပြန်လေသည်။ လောင်းကစားမှု၌စိတ်ဝင်စားနေကြသဖြင့် သူ့ကျွန်ဘဝကိုမေ့ကာ တော်လှန်လိုသောစိတ်ဓာတ်များလျော့ပါးစေနိုင်သည့်အတွက် အင်္ဂလိပ်အစိုးရကလည်း မြန်မာလူမျိုးများဘဝန္နံနစ်ရှည်ကြာရလေအောင် ထိုလောင်းကစားမှုကြီးငယ်တို့ကို အပိတ်အပင် အတားအဆီးမရှိ ခွင့်ပြုခဲ့လေသည်။

ဤသို့လောင်းကစားမှု၌နယ်ကျွံကာ ဘဝန္နံနစ်နေကြရရှာသော လေ့ကျူးမုံရွာဒေသတစ်ဝိုက်ရှိ ဒကာတစ်စုအတွက် သတိသံဝေယူနိုင်သမျှယူကြစေခြင်းငှာ လယ်တီတောရမထေရ်က ရေးသားလိုက်သော မေတ္တာစာတစ်ပုဒ်မှာ–

**ထီယန္တိ ဝိနာသံ ဂစ္ဆန္တိ တေနာတိ ထီ။**

တေန=ဤကစားမှုဖြင့်၊ ဝိနာသံ=ဥစ္စာကုန်ဆုံး ပျက်ပြုန်းနွမ်းပါးခြင်းသို့၊ ထီယန္တိ ဂစ္ဆန္တိ =ရောက်တတ်ကြကုန်၏။ ဣတိတသ္မာ =ထိုသို့ပြုန်းတီးပျက်စီးခြင်း နိမိတ်ကြောင့်၊ ထီ=ထီမည်၏။ ။

ဤဝိဂြိုဟ်စကား အဓိပ္ပာယ်အသွားကို အများတို့နားလည်ရန် ရှိသလောက် ပြန်လိုက်မည်– တိုင်းနိုင်ငံအလုံး ထီးစည်ပါအဆုံး သဒါလံပျက်ပြုန်း သွက်သွက်လယ်မှုန်းပြီးလျှင် လမ်းဆုံးတိုင်အပြီး တစ်ပြည်လုံးအမိုက်သီးတွေကို မြေကြီးပါအောက်စောင်း အပါယ်သို့မှောက်လောင်းမည်ဟု အပေါက်ကောင်းချက်ရှာ၍ မက်တဏှာမှောင်လှိုင်း ဒလက်ခြာဒေါင်စိုင်းအောင် မှိုင်းတိုက်ခါတဆွေ့ဆွေ့ သဝေချာမွှေ့နိုင်သော အမွဲဆေး ကမ်းကုန် ငရဲဘေးလမ်းဆုံးအောင် မယုံလျှင်မလွှတ်ဘဲ ဖွတ်ခဲ၍ထိုးစမ်းတော့

*၁ အရှင်စာရိန္ဒ၏ အနောက်ပရက္ကမဆရာတော်၏ဖြစ်စဉ်နှင့်ကျင့်စဉ်များ။ ၁၉၈၂–ခုနှစ်။ (စာမျက်နှာ–၁၄၀)။

တက်တက်ချော ရှိသမျှဥစ္စာမျောသည့်ပြင်'–ဟု အစချီထားသည့် ထီမေတ္တာစာ ဖြစ်လေသည်။*၁

လယ်တီတောရဘုန်းတော်ကြီးက 'နိုင်လျှင်ကား ရန်၊ ရှုံး ပူပန်' ဟူသော ဆိုရိုးအတိုင်း နိုင်နိုင်ရှုံးရှုံး ကောင်းကျိုးမပေးတတ်သော ထီစသောလောင်းကစားမှုမျိုးကို ပရာဘဝသုတ္တန်လာ 'ဣတ္ထိဓုတ္တော သုရာဓုတ္တော၊ အက္ခဓုတ္တော' အစချီသောဂါထာဖြင့် ဘုရားမကြိုက်သောအလုပ် ဖြစ်ကြောင်း ရေးသားတော်မူပါသည်။*၂ ထိုမျှမက ထီထိုးလောင်းကစားမှုဖြင့်အသက်မွေးခြင်းသည် ရောမအဘိဇ္ဈာ*၃ နှင့် အသက်မွေးမှုဖြစ်ခြင်းကြောင့် ထိုသို့သောအသက်မွေးမှုမျိုးကို 'သေလျှင် အပယ်ဘောင်–ရှင်လျှင်လည်း သီလကြောင်'ဟုသမုတ်ခဲ့သည်။ ထီသမားတို့စိတ်မနောကို ပေါ်လွင်အောင် အောက်ပါစကားပုံများထည့်သွင်း၍ ရေးဖွဲ့တော်မူခဲ့ပေသည်။

- သူတော်ကောင်းစိမ်းဆတ် အုပ်မနပ်ငှက်ပျောလို။
- မနောကကလိမ်ချို့ အပြောကဝတိန်ဘုံ။
- ယုံလောက်အောင်ဖွဲ့နွဲ့ ကုန်မှောက်အောင်ဉာဏ်ချဲ့။
- အရွဲ့နှင့်အကဲဆစ် အထဲညစ်အပေါ်ပြောင်။
- မတွေ့မှအနိုင်ရှောင် သူတော်ယောင်ဆောင်တစ်ဖက်လှ။
- ပါးစပ်ပြောကပျားသကာ ဓာတ်သဘောကခါးတမာ။
- မပြုသာလျှင်ငရဲကြောက် ပြုသာလျှင်အလဲမှောက်။
- သံသရာမှာချေးကြောင်းပေါက် အပါယ်ဘေးရွေးမျှမကြောက်။
- မနောကမျောက်လေပွေ သတိနှင့်သံဝေမှာဟန်သရေ။
- ပလီဉာဏ်လောဘ ဝစီကံစောရ။

ထို့ပြင် ထီထိုးကြသောလောင်းကစားသမားတို့သည် မိမိတို့စီးပွားလာဘ်လာဘဖြောင့်ဖြူး အစဉ်ပြေစေရန်ရည်သန်ပြီး ဘုရားစင်ရှေ့ဝယ် သူ့မျှားပစ္စည်းကိုယ်လက်ရောက်ရေး ဆုပေး သနားရန် အခေါင်ဆိုသောဘုရားရှိခိုးကိုကောင်းကောင်းကျက် တကြော်ကြော်အော်ဟစ်ရှိခိုး လေရာ ဘုရားရှင်ကမနေသာဘဲမိန့်တော်မူပုံစသည်တို့ကို လယ်တီအရှင် ကလောင်စွမ်းပြဖွဲ့ဆို သည်မှာကား–

သူ့ပစ္စည်းအကြောင်နှင့် ခေါင်ဆိုသည့်ဆုတောင်းကို ကောင်းကောင်းကြီး ကျက်ထား၍ ဘုရားရှင့်ရှေ့တော်ဝယ် တအော်အော်ရွတ်ကြသည်။ သုံးလူ့ထွတ်

*၁ လယ်တီဆရာတော်ကြီး၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၂၆)။

*၂ အံ၊ ၂။ ၄၁၇။ သုတ္တနိ။ ၂၉၅။

*၃ အဘိဇ္ဈာ= 'သူတစ်ပါးစည်းစိမ်ဥစ္စာကို ငါ့ဟာဖြစ်လျှင်ကောင်းပေစွ'ဟု မကောင်းသဖြင့် ရှေးရှုကြံစည်မှုကိုဆိုလိုသည်။ ရောမ အဘိဇ္ဈာ–ဆိုလျှင် 'သူတစ်ပါးစည်းစိမ်ကို အလွန့်အလွန်ရလိုမှု'ဟု အနက်ရှိလေသည်။

အမော် ရွှေရုပ်ပွားကိုယ်တော်လည်း 'မတော်ဘုူးနင်တို့မူ၊ နင့်လူ့ဖွယ်ဝတ္တုမှာ မှသားက ဘယ်လောက်ပါ အဝါကဘယ့်လောက်ကဲ အစဉ်းလဲကဘယ့်လောက်ဝင် မစင်သည့် ဝတ္တုများကို ငါဘုရားမခံထိုက်' ဟု လှန်လိုက်တော်မမူဘဲ မသူတော်စရိုက်ထွန်းကားသည့်အခိုက်ပေကို အလိုက်သာကောင်းသေးသည်ဟု ယဉ်ကျေးသည့်နှလုံးနှင့် ပြုံး၍သာနေတော်မူလေသည်*၁-ဟုဖြစ်ပါသည်။

ဤနေရာ၌ ဗုဒ္ဓဘာသာဝင်တို့အတွက် အထူးအရေးကြီးသည်မှာ လောင်းကစားခြင်းသည် သမ္မာအာဇီဝ(ကောင်းသောအသက်မွေးမှု)မဟုတ်သည့်အတွက် ထိုအသက်မွေးမှု(တစ်နည်း) ထိုလောင်းကစားမှုမှရလာသော ဥစ္စာငွေကြေးသည် သန့်ရှင်းမှုရှိပါသလား?၊ ထိုမသန့်ရှင်းသော နည်းဖြင့်ရအပ်သော ဥစ္စာပစ္စည်းကိုလှူသော် အကျိုးရပုံကားမည်သို့နည်း?၊ အလှူဝတ္တုရပုံကလည်း မသန့်၊ အလှူခံပုဂ္ဂိုလ်ကလည်းမမြတ်ဆိုခဲ့လျှင် ထိုအလှူတို့သည် အဘယ်သို့ အကျိုးပေးကြမည်ဆိုသည်တို့ကို သတိပြုမိကြစေရန် ရေးဖွဲ့တော်မူပြန်သည်မှာ-

လောက၏အရှုပ်ကို ဟုတ်သလောက်မြင်ပါလျက် သံဃာတော်အများမှာလည်း ဘုရားရှင့်ရိပ်အကဲကို စိတ်ထဲကချင့်မြှော်၍ သင့်လျော်အောင်သုံးတော်မူကြရပေသည်။ အာဇီဝငဲ့ညှာ ရှောင်းချစဉ်အခါက ဗလချာလူးလဲသော ပစ္စည်းမွဲဝတ္တုကို မသန့်ရှိုးမှန်သော်လည်း အလှူခံမြတ်ပေက အလတ်လောက်အကျိုးထူးပေးဖူးသောသက်သေလည်း ထွက်ပေ၏။ ဖိုးဇင်းရှောင်းဝယ်စဉ်အရင်းက စဉ်းလဲခြင်းမရှောဖက် လောင်းကစားမှုမနှောရှက်ပဲ သက်သက်သားနှလုံးကောင်းနှင့် ရှောင်းဝယ်သူအများကို နတ်သိကြားဦးခိုက် အပူဇော်ခံထိုက်ကြောင်းမှာ- 'ဓမ္မေန ဒါရံ ပေါသေန္တိ၊ တေ နမဿာမိ မာတလိ'-ဒေသနာရှိပေသည်'*၂ ဟူ၍ဖြစ်သည်။

အထက်ဒေသနာကိုအခြေခံ၍ လယ်တီတောရဘုန်းတော်ကြီးက ထိထိုးခြင်းစသည် လောင်းကစားမှုဟူသော ရောမအဘိဇ္ဈာ၊ မိစ္ဆာအာဇီဝ၊ ဝိသမလောဘတို့ကြောင့်ရအပ်သော ဥစ္စာတို့ဖြင့် အသက်တစ်ရာရှည်အောင်နေ၍စည်းစိမ်ခံခြင်းထက် ရိုးရိုးသားသားတရားနှင့်အညီ ရအပ်သောငွေဖြူဖြူနှင့် အသက်တိုချင်တိုပါစေ၊ သက်တမ်းစေ့ရုံနေရခြင်းက ပို၍မြတ်ကြောင်း တိုက်တွန်းလျက် ထီမေတ္တာစာကိုနိဂုံးအုပ်တော်မူခဲ့ပါသည်။

**စတုဝီသတိမဝါဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၅၁-ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၈၉-ခုနှစ်၊ ဇူလိုင်လ) တွင် လယ်တီဘုန်းတော်ကြီး အရှင်ဉာဏသည် (၂၄)ကြိမ်မြောက် စတုဝီသတိမဝါကို လယ်တီတောရကျောင်းမှာပင် ကပ်ဆိုတော်မူခဲ့ပါသည်။

---

*၁ လယ်တီဆရာတော်ကြီး၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆-ခုနှစ်။ (စာမျက်နှာ-၄၀)။

*၂ ယင်း။ ၁၉၅၆-ခုနှစ်။ (စာမျက်နှာ-၄၁)။

**ရှင်ဝါယမရောက်ရှိခြင်း**

ထို သက္ကရာဇ်–၁၂၅၁ (အေဒီ–၁၈၈၉)ခုနှစ်တွင် လယ်တီတောရကျောင်းဘုန်းတော်ကြီး အရှင်ဉာဏ၏ခြေတော်ရင်းသို့ ပရိယတ္တိစာပေဆည်းပူးရန် သက်တော် ၁၅–နှစ်အရွယ် ရှင်ဝါယမ ဘွဲ့မည်ရှိသော သာမဏေတစ်ပါးရောက်ရှိခဲ့ပါသည်။*၁

**ဆုတောင်းပြည့်ဘုရားကြီးပြုပြင်ရန်မေတ္တာစာ**

မုံရွာမြို့ ဆုတောင်းပြည့်မြတ်စွာဘုရားကြီးသည် သက္ကရာဇ် ၁၂၅၀–ပြည့်နှစ် (အေဒီ –၁၈၈၈) ခုနှစ်က စေတီလုံးတော်မြေခဲ့သော်လည်း သက္ကရာဇ်–၁၂၅၁ (အေဒီ–၁၈၈၉)ခုနှစ်သို့ရောက်သည့်တိုင်အောင် မပြုပြင်နိုင်ဘဲရှိခဲ့သည်။ ထို သက္ကရာဇ်–၁၂၅၁ (အေဒီ–၁၈၈၉)ခုနှစ်တွင် အင်္ဂလိပ်အစိုးရက မြန်မာနိုင်ငံအရပ်ရပ်ရှိ ရှေးသမိုင်းဝင်ဘုရားပုထိုးများကိုထိန်းသိမ်းစောင့်ရှောက်ရန် သမိုင်းဝင်ဘုရားပုထိုးများစာရင်းကို ကောက်ယူခဲ့ကြပြီး၊ *၂ ထိုဘုရားပွဲတော်ရက်များကိုလည်း အစိုးရဂေဇက် (Gazette) ခေါ် ပြန်တမ်း၌ ထည့်သွင်းကြေညာပေးခဲ့၏။ ထိုသို့ ဂေဇက်ခေါ် ပြန်တမ်း၌ ပွဲတော်ရက်အကြေညာခံရသောဘုရားပုထိုးတို့ကို ထိုအခါက ‘ပွဲတော်ရဘုရား’ဟု ခေါ်တွင်ခဲ့ကြသည်။

မုံရွာမြို့လယ်ရှိ ဆုတောင်းပြည့်ဘုရား၏ပြိုလဲမှုအခြေအနေကို ဆိုင်ရာအရေးပိုင်က လာရောက်၍စုံစမ်းလေသည်။ ထိုအခါ မြို့လူထုက ‘ဘုရားတွေပြုပြင်မည့်ဒကာမရှိ၍ အင်္ဂလိပ်သိမ်းတော့မည်’ဟုထင်မှတ်ယူဆပြီး မြို့ပေါ်ရှိဆရာတော်,သံဃာတော်များနှင့် မြို့လူထုတို့ ဆုတောင်းပြည့်ဘုရားကြီးပြုပြင်ရေးအတွက် အစည်းအဝေးတစ်ရပ်ခေါ်ယူခဲ့ကြ၏။ ထိုအစည်းအဝေးသို့တက်ရောက်လာကြသော မုံရွာမြို့ပေါ်မှဆရာတော်ကြီးများမှာ–

၁။ ဦးစန္ဒိမာ (အနောက်လေးထပ်ဆရာတော်ကြီး)၊

၂။ ဦးအာလောက (သာဇံတိုက်)၊

၃။ ဦးစန္ဒ (အနောက်အုတ်ကျောင်း)၊

၄။ ဦးပုည (အရှေ့အုတ်ကျောင်း)၊

---

*၁ ထိုရှင်ဝါယမသည် နောင်အခါ စစ်ကိုင်းတိုင်း၊ တန့်ဆည်မြို့နယ် ငနေချောင်းရွာ စည်ရန်ကျောင်းဆရာတော် အရှင်ဝါယမဟူ၍ ထင်ရှားခဲ့ပါသည်။ လယ်တီဆရာတော်ကြီး၏ခြေတော်ရင်း၌ ၂–နှစ်ခိုဝင်ပြီးနောက် အသက် ၁၇–နှစ်တွင် လယ်တီဆရာတော်ကြီးထံမှ မန္တလေးမြို့အရှေ့ပြင် မဟာဝိသုဒ္ဓါရုံတိုက်သို့ရွှေ့ပြောင်းနေခဲ့ပါသည်။ သက်တော်–၂၀ တွင် တွံတေးဆရာတော်ဦးနာဂထံတော်တွင် ပရိယတ်စာပေနည်းခံ သင်ယူခဲ့ပြန်သည်။ နောင် ထိုင်းနိုင်ငံ လန်းပန်းမြို့ ညောင်ဝိုင်းကျောင်းကို အလှူခံရရှိတော်မူပါသည်။ မောင်တက်အင်း၏ ဗုဒ္ဓသာသနာဖြန့်ဝေပါ(ဆောင်းပါး)။ သာသနာ့ရောင်ခြည်။ အတွဲ–၉၊ အမှတ်–၃။ (စာမျက်နှာ–၉၀)။

*၂ မြန်မာနိုင်ငံရှိ ဘုရားပုထိုးကျောင်းကန်ဇရပ်အများစုသည် ကုသိုလ်ရှင်တို့ကရေစက်ချလှူဒါန်းပြီးဖြစ်သဖြင့် ပုဂ္ဂလိကပိုင်ဟု မရှိ၊ သာသနာပိုင်(တစ်နည်း)အများပိုင်ဖြစ်ရကာ ထိုအများပိုင်ပစ္စည်းကို နိုင်ငံတော်အစိုးရက စောင့်ရှောက်ထိန်းသိမ်းရန် တာဝန်ရှိသည်ဟူ၍ အင်္ဂလိပ်အစိုးရက စာရင်းကောက်ယူခြင်းဖြစ်သည်။ ဤသို့ ရှေးဟောင်းအဆောက်အအုံစေတီပုထိုးထိန်းသိမ်းမှုကို အင်္ဂလိပ်အစိုးရက ၁၈၈၃–ခုနှစ်ကပင် စတင်ခဲ့ခြင်းဖြစ်သည်။ Amended List of Ancient Monuments in Burma. အစိုးရပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၁–ပြည့်နှစ်။ (စာမျက်နှာ–၁)။

၅။ ဦးလွှာ (သာဇံတိုက်)၊
၆။ ဦးပုလဲ (သာဇံတိုက်)၊
၇။ ဦးပညာ (ဇေတဝန်တိုက်)၊
၈။ ဦးညာ (သရက်တောတိုက်)၊
၉။ ဦးကလျာဏ (အရှေ့ပြာသာဒ်ကျောင်း)၊
၁၀။ ဦးပရမ (အရှေ့ဇောင်းကြမ်းပင်တိုက်)
၁၁။ ဦး...........* (ပေပင်ကျောင်း)၊
၁၂။ ဦးဉာဏဝံသ (မြောက်တိုက်)၊
၁၃။ ဦးသုဇာတ (ခါးပန်းနီတိုက်)၊
၁၄။ ဦး...........* (...........* တိုက်)၊
၁၅။ ဦးရန်လင်း (ဇေတဝန်တိုက်)၊
၁၆။ ဦးစန္ဒ (သရက်တောတိုက်)–တို့ဖြစ်ကြပါသည်။

ထိုအစည်းအဝေးသို့လာကြသောလူပုဂ္ဂိုလ်များမှာ–
၁။ ဦးဖိုးဒွေး (မြို့အုပ်မင်း၊ ဆူးလေကုန်းရပ်၊ မုံရွာမြို့)၊
၂။ ဦးဒူးညို (လှေကူးသူကြီးမင်း)၊
၃။ ဦးလူနိုင် (အင်စပိတ်တော်မင်း)၊
၄။ ဦးမျှင် (အကွက်အုပ်)၊
၅။ ဦးကွန်း (ဆူးလေကုန်းရပ်)၊
၆။ ဦးစံဒွန်း (ကုန်သည်ကြီး)၊
၇။ ဦးရွှေဂုံး (ညောင်တပင်ရပ်)၊
၈။ ဦးဘို (ကုန်သည်ကြီး)၊
၉။ ဦးဘုန်းပင် (ညောင်တပင်ရပ်)၊
၁၀။ ဦးဉာဏ် (ညောင်တပင်ရပ်)၊
၁၁။ ဦးနီ (ညောင်တပင်ရပ်)၊
၁၂။ ဦးသံချောက် (ညောင်တပင်ရပ်)၊
၁၃။ ဦးဘိုးဆင့် (ညောင်တပင်ရပ်)၊
၁၄။ ဦးဘိုးဆယ် (နိဗ္ဗာန်ကုန်သည်ကြီး၊ ညောင်တပင်ရပ်)၊
၁၅။ ဦးထူး (ကုန်သည်၊ ညောင်တပင်ရပ်)၊

* ဖော်ပြပါဘွဲ့အမည်နှင့် ကျောင်းအမည်တို့ကို မုံရွာမြို့ ဆုတောင်းပြည့်ဘုရားကျောက်စာ၌ မထင်ရှားသဖြင့် ဖတ်မရပါ။

၁၆။ ဦးသာဒွန်း (သာစည်)၊
၁၇။ ဦးသာဒွန်း(ပခုက္ကူ)၊
၁၈။ ဦးမိုး(မုံရွာ)၊
၁၉။ ဦးရွှေသာ(ညောင်တပင်)၊
၂၀။ ဦးနတ်ပေး(ကုန်သည်)၊
၂၁။ ဦးရိုက် (စစ်ကဲကြီး၊ ညောင်တပင်ရပ်)၊
၂၂။ ဦးသာအောင် (ကုန်သည်)၊
၂၃။ ဦးအုံး (ပွဲစားကြီး)၊
၂၄။ ဦးအုန်း (ကုန်သည်)၊
၂၅။ ဦးရင်မောင် (ညောင်တပင်ရပ်)၊
၂၆။ ဦးပေါ်ယွန်း (အကွက်အုပ်)၊
၂၇။ ဦးထူး (ကုန်သည်၊ တရုတ်တန်းရပ်)၊
၂၈။ ဦးအောင်၊
၂၉။ ဦးကြီး (ကုန်သည်)၊
၃၀။ ဦးငြိမ်း၊
၃၁။ ဦးထွန်းမြ (ပွဲစားကြီး)၊
၃၂။ ဦးဒါန (ကုန်သည်)၊
၃၃။ ဦးကျော်ဖလှ၊
၃၄။ ဦးလူကြီး (ပရိက္ခရာကုန်သည်)၊
၃၅။ ဦးအောင်ကျော်ဖ (ပွဲစားကြီး)၊
၃၆။ ဦးရာချိတ် (ကုန်သည်၊ တရုတ်တန်းရပ်)၊
၃၇။ ဦးချို (ဆေးဆရာ၊ လှေတန်းရပ်)၊
၃၈။ ဦးအုံ (ပွဲစား၊ ညောင်တပင်ရပ်)၊
၃၉။ ဦးရွှေသား (အကွက်အုပ်၊ မုံရွာ/တောင်)၊
၄၀။ ဆရာထွန်း (ပန်းထိမ်ဆရာ၊ ညောင်တပင်)၊
၄၁။ ဦးလိမ် (ကုန်သည်)၊
၄၂။ ဦးသာထွန်းဖ (ညောင်တပင်ရပ်)၊
၄၃။ ဦးရွှေခင်
၄၄။ ဦးပေါ်အောင်
၄၅။ ဦးသော် (အတ်ဖုတ်သူ၊ ဆန်တန်းရပ်)၊

၄၆။ ဦးဘိုးဆိုင် (ကုန်သည်)၊

၄၇။ ဦးစံလု (ပရိက္ခရာကုန်သည်)၊

၄၈။ ဦးတော် (ကုန်သည်)၊

၄၉။ ဦးလူနီ (ကုန်သည်)၊

၅၀။ ဦးစံလင်း (အမိန့်တော်ရ၊ ကူးတို့/တောင်ရပ်)၊

၅၁။ ဦးကျော် (အမိန့်တော်ရ၊ ကူးတို့/မြောက်ရပ်)၊

၅၂။ ဦးတေနောင် –တို့ဖြစ်ကြပါသည်။[*၁]

ထိုဆုတောင်းပြည့်ဘုရားကြီးပြုပြင်ရေးအစည်းအဝေးသို့ကြွရောက်လာကြသော ဆရာတော်ကြီးများနှင့် မြို့မိမြို့ဘလူကြီးမင်းတို့က ဘုရားကြီးပြုပြင်ရန်အတွက် အဓိကအရေးကြီးသည်မှာ အလှူတော်ငွေရရှိရေးပင်ဖြစ်ကြောင်း၊ ထိုလိုအပ်နေသောအလှူငွေကို အမြန်ဆုံးကောက်ခံနိုင်ရန် မြို့ရွာအနှံ့အသိပေးကြော်ငြာဖို့လိုကြောင်း၊ ထိုကြော်ငြာစာကို မုံရွာမြို့ လယ်တီတောရ၌သီတင်းသုံးနေတော်မူသော ဘုန်းတော်ကြီးဦးဉာဏထံမှတောင်းခံရန်ဖြစ်ကြောင်း စသည်ဖြင့် ဆုံးဖြတ်ခဲ့ကြပါသည်။

လယ်တီဘုန်းတော်ကြီးသည် အရက်မေတ္တာစာ၊ နွားမေတ္တာစာ၊ ထီမေတ္တာစာ–စသည့် မေတ္တာစာတို့ဖြင့် မုံရွာတစ်နယ်လုံးထင်ရှားကျော်ကြားခဲ့ရာ၊ ယခု ဆုတောင်းပြည့်ဘုရားကြီး ပြုပြင်ရန်အတွက် နှိုးဆော်သောမေတ္တာစာကိုလည်း ဘုန်းတော်ကြီးထံမှတောင်းခံရန် အများသဘောတူညီကြခြင်းဖြစ်သည်။ ဆရာတော်ကြီးများနှင့် ဥပါသကာတို့၏ဆန္ဒကိုမလွန်ဆန်ဘဲ ဆုတောင်းပြည့်ဘုရားပြုပြင်ရန်အတွက် သဒ္ဓါနှိုးသောမေတ္တာစာတစ်ပုဒ်ကို လယ်တီဘုန်းတော်ကြီးက ရေးသားပေးတော်မူခဲ့ပါသည်။[*၂]

## လယ်တီစာသင်နည်း

လယ်တီဘုန်းတော်ကြီးသည် မန္တလေးမြို့မြောက်ပြင်စံကျောင်းတိုက်၌ စာချနေတော်မူစဉ်အခါက ရူပသိဒ္ဓိသဒ္ဒါကျမ်းကို စမ်းသပ်ပို့ချ စာသင်ပေးတော်မူဖူးပါသည်။ အခြား သဒ္ဒါ၊သင်္ဂြိုဟ်စာဝါများကိုလည်း နည်းသစ်ထွင်၍စမ်းသပ်ဖို့ရန် စိတ်ကူးကြံစည်မှုများရှိခဲ့ပေလိမ့်မည်။ ထိုအကြံအစည်များသည် လယ်တီတောရတိုက်တည်ထောင်ပြီးသည့်အခါ အကောင်အထည်ဖော်ရန်အခါအခွင့်ဆိုက်ရောက်လာပြီဖြစ်သည်။ သို့ပါ၍ လယ်တီဘုန်းတော်ကြီးသည် စာသင်နည်းသစ်များရေးဆွဲတော်မူခဲ့ပါသည်။

---

[*၁] မုံရွာမြို့၊ ဆုတောင်းပြည့်ဘုရားကြီး၏ အရှေ့ဘက်ရှိ အာရုံခံတန်ဆောင်းကြီးအတွင်း တောင်ဘက်နံရံတွင် ရေးထိုးမြှုပ်နှံထားသော မုံရွာမြို့၊ ဆုတောင်းပြည့်ဘုရားသမိုင်းကျောက်စာမှဖြစ်သည်။ ထိုကျောက်စာကို ၁၃၂၅–ခုနှစ်၊ ဝါခေါင်လဆန်း ၁၅–ရက် (အေဒီ–၄၊ ဩဂုတ်လ၊ ၁၉၆၃)ခုနှစ်တွင် ကျောက်ဆစ်ဆရာဦးဟိန်း ထွင်းထုပါသည်။

[*၂] ဤမေတ္တာစာကို လယ်တီဆရာတော်ကြီး၏ ဂန္ထိရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ ၅၈–၇၂)တွင်ကြည့်ပါ။

ရှေးအခါက သဒ္ဒါ,သင်္ဂြိုဟ်စသောကျမ်းများသင်ကြားရာ၌ သဒ္ဒါရေးဆိုင်ရာ အဓိပ္ပာယ်ပြောဟောမှုကို ဦးစားပေးခဲ့သည်။ စင်စစ် သဒ္ဒါရေးသည် ပိဋကတ်ပင်လယ်ကိုကူးခတ်ရာ၌ အရေးပါလှသည်ဖြစ်ရာ သဒ္ဒါကောသလ္လဉာဏ်မရင့်သန်ဘဲ ပရိယတ္တိစာပေတို့၌ အနက်မှန်, သဘောမှန်ကို မသိနိုင်သဖြင့် သဒ္ဒါရေးကို အထူးဦးစားပေး၍ ခေတ်အဆက်ဆက်သင်ခဲ့ကြခြင်းမှာ မှားသည်ဟုမဆိုနိုင်ပေ။

သို့ပါသော် သဒ္ဒါရေးကိုဦးစားပေးလွန်းသည့်အတွက် စာသင်သားများသည် သဒ္ဒါရေးဖြင့်သာ အချိန်ကုန်လွန်ကြရသဖြင့် နိကာယ်ငါးရပ်ပိဋကတ်ပါဠိတော်ကြီးများ၌ ကျွမ်းကျင်လိမ္မာရေးတည်းဟူသော ရည်ရွယ်ရင်းပန်းတိုင်သို့ မရောက်ဘဲရှိခဲ့ကြသည်။ ဤသို့ နိကာယ်ငါးရပ် ပိဋကတ်သုံးပုံတည်းဟူသောပန်းဝတ်ရည် မသောက်သုံးကြရသဖြင့် သာသနာတော်တွင်း၌ကျရောက်ကြရပါလျက် သာသနာတော်နှင့်မနီးစပ်သလိုဖြစ်နေကြရသည်။ လယ်တီဘုန်းတော်ကြီးသည် မန္တလေးရတနာပုံခေတ်အတွင်း စာသင်သားလည်းဖြစ်ခဲ့၊ စာချဘုန်းကြီးလည်းဖြစ်ခဲ့ဖူးခြင်းတို့ကြောင့် ထိုခေတ်၏ ပါဠိစာပေသင်ကြားရေးကို ကောင်းစွာသဘောပေါက် ရိပ်စားမိတော်မူခဲ့ပါသဖြင့် သင်ကြားပုံနည်းစနစ်တို့ကို ပြုပြင်လိုသောဆန္ဒဖြစ်ခဲ့ခြင်းပင်။

လယ်တီဘုန်းတော်ကြီးက ထိုခေတ်ကပါဠိပညာရေးကို 'ခိုတောင်ကူးတို့သူကြီးနှင့်တူသည်'ဟု မိန့်ဆိုတော်မူဖူးသည်။ ဆရာတော်၏ဥပမာ၌ 'ခိုတောင်ကူးတို့သူကြီး' ဆိုသည်မှာ ဧရာဝတီမြစ်ကိုဖြတ်ပြီး စစ်ကိုင်းဘက် ခိုတောင်ဆိပ်နှင့် မန္တလေးဘက် မရမ်းခြံဆိပ်ကို ခေါက်တုံ့ခေါက်ပြန်ကူးနေရသော ငှက်သမားကူးတို့သူကြီးကိုဆိုလိုခြင်းဖြစ်သည်။ မြစ်တစ်ဖက်မှတစ်ဖက်သို့ အပြန်အလှန်ကူးခတ်ရသောကြောင့် အခေါက်အရေအတွက်သာများလိမ့်မည်၊ အကျိုးကျေးဇူးကား ရှိလိမ့်မည်မဟုတ်–ဟု ဆိုလိုခြင်းဖြစ်သည်။*[၁]

သဒ္ဒါ,သင်္ဂြိုဟ်စသော အခြေခံကျမ်းများကိုသာ သင်ကြားနည်းအမျိုးမျိုးဖြင့် တစ်နည်းပြီးတစ်နည်း၊ တစ်မျိုးပြီးတစ်မျိုး ထပ်ခါတလဲလဲ အကျယ်ချဲ့ထွင်၍ အကြိမ်ကြိမ်ခေါက်တုံ့ခေါက်ပြန်သင်ကြားပို့ချနေကြစေကာမူ ရည်ရွယ်ရင်းဖြစ်သော နိကာယငါးရပ် ပါဠိတော်သို့မရောက်လျှင် ပရိယတ္တိကိစ္စမပြီးကြောင်းကို သိစေလိုရင်းဖြစ်သည်။

သဒ္ဒါရေးဆိုင်ရာကို အောက်ခြေခိုင်အောင်(တစ်နည်း)သဒ္ဒါသင်ရိုးကုန်အောင်သင်မှ အနက်ဉာဏ် ကြီးထွားရင့်သန်လာသည့်နည်းတူ ပရိယတ္တိ၏အနှစ်သာရဖြစ်သော နိကာယ်ပါဠိတော်ကြီးများကိုလည်း ပေါက်ရောက်တွင်ကျယ်စွာ ပို့ချသင်ကြားပေးနိုင်မှသာ သာသနာ့ဝန်ထမ်းရခြင်း၏ရည်ရွယ်ရင်းကိစ္စဖြစ်သော ရာဂကင်းခြင်း၊ မာနကင်းခြင်းစသည်တို့ ပေါက်မြောက်ပေလိမ့်မည်။ သို့မှသာ ရာဂ, မာနစသောတရားတို့ကင်းပျောက်ခြင်းအကျိုးငှာဟောထားခဲ့သော ပါဠိတော်ကြီးများကို သင်ကြားနာယူရသော စာသင်သားတို့သည် ဘုရားရှင်နှင့် ကိုယ်တိုင်ဆတ်ဆတ်တွေ့သကဲ့သို့ ဖြစ်ကြပေလိမ့်မည်။

---

*[၁] အရှင်ကေလာသ၏ မဟာဝိသုတာရာမနိကာယသာသနာဝင်။ ၁၉၇၀–ပြည့်နှစ်။ (စာမျက်နှာ–၄၁၂)။

လယ်တီဘုန်းတော်ကြီး ပြုပြင်၍နည်းသစ်ထွင်ကာ ပို့ချတော်မူခဲ့သော စာသင်နည်းများမှာ ဤသို့ဖြစ်သည်။

သဒ္ဒါပို့ချရာတွင် ရူပသိဒ္ဓိကျမ်းကို အထူးအလေးပြု၍ ပို့ချတော်မူပါသည်။ ရူပသိဒ္ဓိသုတ်စဉ်ကို အနက်နှင့်တကွ ကြိုတင်ကျက်မှတ်ထားစေပြီးနောက် ရူပသိဒ္ဓိကျမ်းရင်းကို နေ့ဝါ၊ ပုဒ်၊ ရုပ်၊ ဓာတ်စဉ်တို့ကို ပဒမာလာပြု၍ ညဝါဆိုရိုးပို့ချပေးတော်မူပါသည်။ သို့ပို့ချရာတွင် ရှေးဦးစွာ နာမ်၊ အာချာတ်၊ ကိတ်၊ တဒ္ဓိတ်၊ သမာသ်၊ ကာရက၊ သန္ဓိ-စသည်ဖြင့်ပို့ချပါသည်။ နာမ်, အာချာတ်နှင့် ကိတ်တို့ အထူးနိုင်နင်းအောင်ပို့ချပါသည်။ နာမ်ပိုင်းတွင် နာမ်ဝိဘတ်သွယ်ပုံ ပဒမာလာကိုစက်လှည့်၍ ကျေမွနေအောင်ကျက်ရ၏။ ကျောက်တံသင်ပုနိုးမှာလည်း တွက်ရ၏။ အနုလုံပဋိလုံ အပြန်အလှန်ကျက်ရ၏။

ရံခါ၌ ရှေးဦးစွာ သဒ္ဒါကြီးတစ်ခေါက်ပေါက်အောင် စာချဘုန်းကြီးတစ်ပါးကပို့ချထားပြီး ဘုန်းတော်ကြီးက ရူပသိဒ္ဓိကို မိမိရေးသော နိရုတ္တိဒီပနီ၊ သဒ္ဒနီတိ-တို့နှင့်တွဲလျက် အကျယ်တဝင့် သုံးကျမ်းတွဲ ပို့ချတော်မူပါသည်။ ဤသို့ ရူပသိဒ္ဓိကျမ်းကို နေ့ဝါညဝါတို့ဖြင့် စာသင်နည်း အသစ်တစ်ရပ်အဖြစ် တီထွင်ပို့ချတော်မူခဲ့ပါသည်။ ထိုအခါက 'လယ်တီကပ်လျှင် သဒ္ဒါတတ်မည် လယ်တီမကပ် စာမတတ်'ဟူ၍ပင် ပြောစမှတ်တွင်ခဲ့ပါသည်။*၁

သင်္ဂြိုဟ်ကိုပို့ချရာတွင်လည်း ရှေးဦးစွာ စိတ်ပိုင်း၊ နောက် စေတသိက်ပိုင်း၊ နောက် ပကိဏ်းပိုင်း၊ ရုပ်ပိုင်း၊ သမုစ္စည်းပိုင်း၊ ကမ္မဋ္ဌာန်းပိုင်း၊ ဝီထိပိုင်း၊ ပစ္စည်းပိုင်း-စသည်ဖြင့်ပို့ချတော်မူပါသည်။

သဒ္ဒါနှင့်သင်္ဂြိုဟ်တို့၌သင်၍နှံ့စပ်သော် ပါဠိတော်နိကာယ်ကျမ်းကြီးများကို အဋ္ဌကထာနှင့် တွဲ၍ဖြစ်စေ၊ ဋီကာနှင့်တွဲ၍ဖြစ်စေ ပို့ချပေးတော်မူပါသည်။ နိကာယ်တို့ကိုချရာတွင် ပါဠိတော်ကို အနက်ထင်ရန်နှင့် စာစပ်မြင်စေရန်တို့ကိုသာ အလေးထား၍ပို့ချပေးတော်မူပါသည်။

နိကာယ်ငါးရပ်ပါဠိတော်ကြီးများကို သင်ယူရသောအခါ၌ စာသင်သားတို့အဖို့မှာ ကိုယ်အမူအရာ, နှုတ်အမူအရာ ယဉ်ကျေးသိမ်မွေ့၍ စိတ်ထားနူးညံ့လာကြလေသည်။ ရာဂ, မာန စသည် ခေါင်းပါးလာကြ၏။ ဗုဒ္ဓဟောညွှန်သော ကျင့်စဉ်တရားတို့ကို စာထဲမှာသာမဟုတ် နှလုံးသားအတွင်းသို့စိမ့်ဝင်အောင် လက်တွေ့အဟုတ်တကယ်သင်ယူရသဖြင့် ဘုရားရှင်နှင့် နီးစပ်ခွင့်ရကြသည်။

သို့ဖြစ်၍ စာလည်းမြန်မြန်တတ်စေ၊ စာမြန်မြန်ကတတ်၍ အနှစ်သာရဖြစ်သော နိကာယ်ကြီးများကြည့်ရှုကြပြီး နှလုံးသား၌ကိုယ်စီဆောင်နိုင်ကြသဖြင့် လယ်တီတောရစာသင်တိုက်ကြီးသည် ပရိယတ်မကင်းသော ပဋိပတ်ကျောင်းတိုက်ကြီးအဖြစ်ကို ကောင်းစွာထူထောင်နိုင်ခဲ့လေသည်။

---

*၁ ဆရာကြီးလယ်တီဦးလှတင်၏ မိန့်ဆိုချက်နှင့် လယ်တီဦးကောဝိဒ၏ လယ်တီပဒမာလာကျမ်း၊ ပထမတွဲ။ ပိဋကတ်တော်ပြန့်ပွားရေးပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၆၃-ခုနှစ်။ (စာမျက်နှာ-၁၉)။ အရှင်ဉာဏိန္ဒာသဘ၏ အရှေ့လယ်တီဆရာတော်၏ ထေရုပ္ပတ္တိကျော်။ ပညာနန္ဒပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၆၀-ပြည့်နှစ်။ (စာမျက်နှာ-၉၀)။

လယ်တီတိုက်အတွင်း၌ သင်ကြားပို့ချပုံစာသင်နည်းကောင်းကြောင်း သတင်းကျော်လှသဖြင့် မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးကပင် စိတ်ဝင်တစားရှိတော်မူကာ မုံရွာမြို့ လယ်တီဆရာတော်ထံ လယ်တီစာသင်နည်းကိုသိလိုသည်ဟု စာရေးမေးမြန်းလာသောအခါ လယ်တီဘုန်းတော်ကြီးကလည်း မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးထံတော်သို့ လယ်တီစာသင်နည်းကိုသာမက မိမိ၏ပရိယတ္တိသာသနာအပေါ် ခံယူချက်စသည်တို့ကိုပါရေးစွက်လျက် ပြည့်စုံစွာဖြင့်ပင် ရှိသေစွာပြန်လည်လျှောက်ထားခဲ့ရပါသည်။*၁

မုံရွာမြို့ လယ်တီတောရတိုက်၏စာသင်နည်းသည် ပခုက္ကူမြို့ရှိ မဟာဝိသုတာရာမတိုက်နည်းတူ နိကာယ်တော်များပေါက်အောင်သင်ကြားသော စာသင်နည်းဖြစ်သည်။ ထိုလယ်တီစာသင်နည်းမှာ ထိုခေတ်ထိုအခါက အလွန်သတင်းကြီးမားကျော်စောခဲ့ပါသည်။ ပခုက္ကူမြို့တွင်လည်း ရေစကြိုဆရာတော်ဘုရားကြီးအရှင်ဂန္ဓသာရမထေရ်မြတ်သည် မိမိနည်းတူ နိကာယ်ကုန် စာပေပို့ချနေတော်မူသော လယ်တီဆရာတော်၏ နိကာယ်ပေါက်စာသင်နည်းကို အလွန်နှစ်သက်အားရတော်မူလေသည်။ တစ်ကြိမ်သောအခါ လယ်တီဘုန်းတော်ကြီးသည် ရေစကြိုဆရာတော်ဘုရားကြီးထံအဖူးမြော်ရောက်ရာ ရေစကြိုဆရာတော်ကြီးက– 'မောင်လယ်တီ၊ မောင်လယ်တီ စာချနေတယ်ဆိုလို့ ရည်ညွှန်းပြီးမေတ္တာပို့ပါ၏'ဟု မိန့်တော်မူဖူးလေသည်။*၂

ပဥ္စဝီသတိမဝါဆိုတော်မူခြင်း

သက္ကရာဇ် ၁၂၅၂–ခုနှစ်၊ ဝါဆိုလ(အေဒီ ၁၈၉၀–ပြည့်နှစ်၊ ဇွန်/ဇူလိုင်လ)တွင် လယ်တီတောရကျောင်းဆရာတော်ကြီးသည် (၂၅)ကြိမ်မြောက် ပဥ္စဝီသတိမဝါကို လယ်တီတောရကျောင်းမှာပင် ဝါကပ်တော်မူခဲ့ပါသည်။ ထိုနှစ်၌ သီဟိုဠ်ကျွန်းမှ ဒက္ခိဏသာခါမဟာဗောဓိပင်မျိုးအစစ်ကို ရတော်မူသဖြင့် လယ်တီတောရကျောင်းကြီးအတွင်း မဟာဗောဓိပင်ကိုစိုက်ပျိုးတော်မူခဲ့ပါသည်။

မဟာဗောဓိပင်

ဗောဓိ–ဟူသည်ကား သစ္စာလေးပါးကိုသိမြင်တတ်သောကြောင့် မဂ်လေးပါးကို 'ဗောဓိ'ဟူ၍ ခေါ်၏။ ဉေယျဓမ္မတို့ကိုသိမြင်တတ်သောကြောင့် သဗ္ဗညုတဉာဏ်တော်ကိုလည်း 'ဗောဓိ'ဟူ၍ ခေါ်၏။ ထိုသစ္စာလေးပါးဉေယျတရားတို့ကိုပိုင်းခြားထင်ထင်သိမြင်ရာဖြစ်သောကြောင့် ပွင့်တော်မူရာသစ်ပင်ကိုလည်း 'ဗောဓိ'ဟုခေါ်၏။*၃ ထိုဗောဓိတည်ရာအရပ်သည် မာရ်ယုတ်ငါးအင်ကို ရှင်းလင်းအောင်ခုတ်ထွင်၍ သုတ်သင်ရာဗောဓိမဏ္ဍိုင်ဖြစ်၍ ဘုရားရှင်တို့၏သာသနာတွင် လွန်စွာ

*၁ မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးထံလျှောက်ထားပေးပို့သော လယ်တီစာသင်နည်းကို လယ်တီဆရာတော်ကြီး၏ သာသနဝိသောဓနီကျမ်း၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ ၁၉၆–၂၃၁)တွင်ရှုပါ။

*၂ ရည်ညွှန်း၍မေတ္တာပို့ဆိုသည်မှာ ဩဒိသမေတ္တာပို့မှုကို ဆိုလိုသည်။ အရှင်ကေလာသ၏ ရေစကြိုဆရာတော်ကြီး အရှင်ဂန္ဓသာရမဟာထေရ်မြတ်၏ အဖြစ်တော်စဉ်မဟာထေရုပ္ပတ္တိကထာ ပဒီပိကာ။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ–၂၃၂)။

*၃ တိပိဓာန်၊ ၁၅။ ၃၄၁။

မြင့်မြတ်သော ဌာနထူးဌာနမြတ်ဖြစ်ပေသည်။ ဂင်္ဂါဝါဠုသဲစုမကပွင့်တော်မူကြဘုရားရှင်တို့သည် မိုရာဗောဓိပင်အသီးသီးတို့ကိုအမှီပြုတော်မူကြ၍ ပွင့်တော်မူကြရာ သစ်ပင်အမျိုးအစားချင်းသာ မတူရှိရမည်၊ ဗောဓိပင်ဟူသောဂုဏ်ထူးဝိသေသနှင့်ပြည့်စုံသည်ဖြစ်၍ မည်သည့်ဗောဓိပင်မဆို ပရိဘောဂစေတီအရာသွင်း၍ ပူဇော်ထိုက်လေသည်။ ထို့ပြင် ဗောဓိပင်များကို ပြစ်မှားလိုသော စေတနာယုတ်ဖြင့် မချိုးဖဲ့ကောင်းပေ၊ အကယ်၍ထိပါးချိုးဖဲ့ပါမူ မြတ်စွာဘုရား၌ သွေးစိမ်းတည် စေသော လောဟိတုပ္ပါဒကံနှင့်အလားတူသည့် ကံကြီးထိုက်ကြောင်းကို ကျမ်းဂန်မှာအထင်အရှား ပြထား၏။

သီရိလင်္ကာကျွန်း၌ အသောကမင်းတို့လက်ထက်ကပင် သံဃမိတ္တာထေရီ ပင့်ဆောင်လာ သဖြင့် ဗောဓိပင်စိုက်ပျိုးကာ ဗောဓိသာသနာကိုထူထောင်လာခဲ့ကြသည်မှာ ယနေ့ထိတိုင်အောင် ဖြစ်ပေမည်။ (ဝိ၊ ဌ၊ ၁၊ ၆၈၊)။ သီရိလင်္ကာကျွန်းရှိ ဗုဒ္ဓဘာသာဝင်တို့သည် ဗောဓိညောင်ပင်ဟူသမျှကို အလွန်ရိုသေကိုင်းရှိုင်းပူဇော်ကြကုန်၏။ ယခုအခါ သီရိလင်္ကာ၌ ကျောင်းဘုရားစေတီရှိသမျှ အနီးတွင် ဗောဓိညောင်ပင်ကို စိုက်ထားကိုးကွယ်လေ့ရှိကုန်၏။*၁

မြန်မာနိုင်ငံ၌လည်း ပုဂံခေတ်ကပင် ရှင်အရဟံမထေရ်သည် သီရိလင်္ကာကျွန်းမှ ဗောဓိပင် မျိုးကို ပင့်ဆောင်တော်မူခဲ့ပြီး၊ နတ်မောက်အနီး ပင်းမြို့၌ စိုက်ပျိုးပူဇော်ထားရှိကြောင်း မှတ်တမ်း ရှိပေသည်။*၂ ပုဂံခေတ် ပေါင်လောင်ရှင်ကဿပသည်လည်း သီဟိုဠ်ကျွန်းမှ မြန်မာနိုင်ငံသို့ ဗောဓိပင်ကိုသယ်ဆောင်လာပြီး ဗောဓိပင်စိုက်ခဲ့ကြောင်းနှင့် ဗောဓိဝင်ဋီကာစသောကျမ်းကို ရေးကြောင်း မှတ်တမ်းရှိပေသည်။*၃ ကုန်းဘောင်ခေတ် ဘိုးတော်မင်းလက်ထက် သီဟိုဠ်ကျွန်းမှ ဒက္ခိဏသာခါမဟာဗောဓိပင်၏မျိုးစေ့များကို မင်းကွန်းစေတီတော်ကြီး၏တောင်မျက်နှာ မင်္ဂလာ ဥယျာဉ်အတွင်း စိုက်ပျိုးတော်မူခဲ့ပါသည်။*၄ ထို့ပြင် မင်းတုန်းမင်းလက်ထက်ပင့်ဆောင်လာသော ဗောဓိပင်တော်ကို မန္တလေးရွှေမြို့တော် တောင်ပြင်မဟာနွယ်စဉ်ရပ်(ယခု–ဗောဓိကုန်း)၌ စိုက်ပျိုး တော်မူခဲ့ပါသည်။*၅

ဤသို့လျှင် မဟာဗောဓိပင်ပွား၊ မဟာဗောဓိပင်၏အကိုင်း၊ မဟာဗောဓိပင်မှဖြစ်သော အသီး–စသည်တို့ကို အထွတ်အမြတ်ထားကာ စိုက်ပျိုးပွားယူကြသကဲ့သို့ လယ်တီဆရာတော် သည်လည်း သီရိလင်္ကာကျွန်းမှ မဟာဗောဓိပင်ပွားတစ်ဆူကိုရတော်မူသည်ဖြစ်၍ အားရဝမ်းသာ စွာဖြင့် လယ်တီတောရကျောင်းဝင်းအတွင်း စိုက်ပျိုးတော်မူခဲ့ခြင်းဖြစ်ပါသည်။

---

*၁ ဘိက္ခုဃောသမ္မောဘိဝံသ၏ လင်္ကာဒီပနိုင်ငံခြားဗဟုသုတ။ ဆန်းဆန်းပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၂–ခုနှစ်။ (စာမျက်နှာ–၄၂)။

*၂ အရှင်ဉာဏာဘိဝံသ၏ မဟာဗောဓိပင်းရွှေညောင်တော်အတ္ထုပ္ပတ္တိကထာကျမ်း။ ၁၂၉၁–ခုနှစ်။ (စာမျက်နှာ–၈)။

*၃ မဟာဓမ္မသင်္ကြံ၏ သာသနာလင်္ကာရစာတမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၁၁၃)။

*၄ ROB, VI. Page-434.

*၅ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၃၂၄)။

စေတိယင်္ဂဏဝတ်

ဗောဓိပင်ကိုစိုက်ပျိုးပြီးသည့်နောက် ထိုဗောဓိနှင့် ဗောဓိပင်တည်ရှိရာယင်ပြင်(အင်္ဂဏ)တို့၌ ပြုကျင့်ရသော ကျင့်ဝတ်တို့ရှိပြန်လေသည်။ ထိုကျင့်ဝတ်ကို 'ဗောဓိယင်္ဂဏဝတ်'ဟုခေါ်သည်။ ယင်းကျင့်ဝတ်မှာ–

၁။ ဗောဓိပင်၏ပရိက္ခေပဖြစ်သောမြေတလင်းကို သန့်ရှင်းအောင်သုတ်သင်၍ တံမြက်လှဲခြင်း၊

၂။ ဗောဓိပင်ကိုရေသွန်းလောင်းခြင်းနှင့်

၃။ အလင်းပျောက်သော ညချမ်းအခါတွင် ပန်းဆီမီးတို့ဖြင့်ပူဇော်ခြင်း–တို့ပင်ဖြစ်သည်။ (ဒီ၊ ဋ္ဌ၊ ၂။ ၁၁၉။)။

ဗောဓိပင်ကိုကြည်ညိုလေးမြတ်ကာ ဗောဓိယင်္ဂဏသမ္မဇ္ဇနခေါ် တံမြက်လှဲခြင်းစသော ဝတ်များကို မချွတ်မယွင်းပြုလုပ်ပါက သက်တော်ထင်ရှားမြတ်စွာဘုရားရှင်အား ဖူးမြော်ပူဇော်၍ လုပ်ကျွေးရသော ကုသိုလ်၏အကျိုးနှင့်တူစွာရရှိကြောင်း ကျမ်းဂန်တို့၌ပြဆိုထား၏။ *၁ (အံ၊ ဋ္ဌ၊ ၂။ ၃၄၈။)။

လယ်တီဆရာတော်သည် မဟာဗောဓိပင်ပျိုးကိုစိုက်ပျိုးပြီးနောက် နေ့စဉ်မပြတ် ကိုယ်တော်တိုင်ဗောဓိယင်္ဂဏဝတ်ကိုပြုစုတော်မူခဲ့ပါသည်။ ထိုဗောဓိပင်အနီးမြေတလင်းကို နေ့စဉ်မပြတ် နံနက်လေးနာရီခွဲအချိန်မှာ သန့်ရှင်းအောင်တံမြက်လှည်းတော်မူပါသည်။ နေ့စဉ် ရေသုံးအိုး ကိုယ်တိုင်ထမ်းရွက်လျက် ဗောဓိပင်ကို ရေသိတော်မူခဲ့ပါသည်။ ထိုဗောဓိပင်သည် တစ်နေ့တခြား သန်စွမ်းကြီးထွားလာသောအခါ လယ်တီဆရာတော်သည် အားရတော်မူလွန်း၍ သံဃာတော်အများနှင့် လူပရိသတ်တို့အား ဗောဓိပင်ကိုပူဇော်သော ကာလိင်္ဂဗောဓိဇာတ်(ဇာ၊ဋ္ဌ၊၄။၂၂၈။)ကို ဟောကြားပြီး နေ့စဉ်ပန်းတို့ဖြင့်လည်း ပူဇော်တော်မူခဲ့ပါသည်။ *၂

အလှလောင်းကြတာ

မဟာဗောဓိညောင်ပင်ကို ဗုဒ္ဓဘာသာဝင်အများက ကဆုန်လတွင် ရေသွန်းလေ့ရှိ၏။ လယ်တီဆရာတော်ကမူ နေ့စဉ်သွန်းတော်မူ၏။ သို့ရေသွန်းရာ၌ ဆရာတော်တစ်ကိုယ်လုံးလည်း ရေများရွှဲရွှဲစိုသည်အထိသွန်းတော်မူပါသည်။ ထိုအခါ ဆရာတော်က–

ညောင်ရေသွန်းလောင်းတယ်ဆိုတာ သည်လိုညောင်ပင်ကိုရေလောင်းတဲ့ သူရော၊ ညောင်ပင်ရော ရေတွေဘောင်းလန်နေအောင်လောင်းမှကောင်းတယ်။ ယခုကာလ ညောင်ရေသွန်းလောင်းကြတာက ရေအဝလောင်းတာမှမဟုတ်၊ ရေအလှ လောင်းကြတာက များနေကြတယ်။ အိမ်နားနီးချင်း ရှိသေရုံဝတ်တက်ဆိုသလို

*၁ မင်းကွန်းဇေတဝန်ဆရာတော်ကြီး၏ မဟာဗုဒ္ဓဝင်ပထမတွဲ (ဒုတိယပိုင်း)။ (စာမျက်နှာ–၅၇၉)။

*၂ လယ်တီပဏ္ဍိတ၏ သာစုသန္တိယပ်လှဲတရားပေါင်းချုပ်။ တိုးတက်ရေးပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ– ၃၁၈)။

အလုအပအပေါ်ယံကြောက များကြသကွဲ့။ တို့ကတော့ စိတ်ရော,ကိုယ်ရော ကိုယ်တိုင်ခပ်ပြီး ကိုယ်တိုင်လောင်းတယ်။ ကိုယ်တိုင်ရှိခိုးပူဇော်တယ်။ ယခုကာလလုပ်ပုံတွေကတော့ တို့နှင့်မျက်နှာကြောမတည့်ပါဘူး။ အချို့က ဘုရားရေလှူတာတောင် သူများကိုအခပ်ခိုင်းကြတယ်။ သူများကိုရှိခိုးခိုင်းကြတယ်၊ သူများကိုအပူဇော်ခိုင်းကြတယ်၊ သူများကိုဆုတောင်းခိုင်းကြတယ်။ ကိုယ်လုပ်နိုင်လျက်သားနှင့် အသက်သာခံပြီး သူတစ်ပါးကိုအလွန်အားကိုးကြတာကိုးကွဲ့။ အဲဒါကြောင့် အကျိုးပေးမထက်သန်ကြတာ–ဟု မိန့်တော်မူပါသည်။*၁

**မီးပွဲမေတ္တာစာ**

လယ်တီဆရာတော်သည် ဘုရားစေတီတို့၌ ဆီမီးပူဇော်သောအလေ့အားကြီးတော်မူပါသည်။ လယ်တီတောရကျောင်းတည်ပြီးသောအခါ၌ တိုက်တွင်းရှိ ဆင်းတုတော်တို့၌ ညစဉ်ဆီမီးပူဇော်ရုံမျှသာမက သင်္ကြန်အခါဖြစ်စေ၊ ဝါဝင်ဝါထွက်အခါဖြစ်စေ ရုပ်ပွားဆင်းတုတော်,ပိဋကတ်သုံးပုံပါဠိတော်ပေထုပ်များနှင့် မဟာဗောဓိပင်တို့ကို ပန်း,ဆီမီး,ထီး,တံခွန်စသည်တို့ဖြင့် ပူဇော်သက္ကာရပြုတော်မူမြဲဖြစ်ပါသည်။ အထူးအားဖြင့် မဟာဗောဓိပင်စိုက်ပျိုးပြီးသည့်အခါမှစ၍ သီတင်းကျွတ်လပြည့်၌ ကျောင်းဝင်းအတွင်း ဆီမီးများစွာထွန်းညှိကာ ရတနာမြတ်သုံးပါးအားပူဇော်တော်မူခဲ့ပါသည်။

ဆရာတော်သည် ဒကာဒကာမများကိုလည်း ဆီမီးထွန်းညှိပူဇော်ရန် အမြဲတိုက်တွန်းပြီး ဆီမီးလှူခြင်းကြောင့်ရသော အကျိုးတို့ကိုလည်း အောက်ပါအတိုင်း ဟောကြားတော်မူလေ့ရှိပါသည်။

ဆီမီးပူဇော်ရခြင်းဟူသော ဒီပဒါနကုသိုလ်ကြောင့် ဖြစ်လေရာဘဝတိုင်း၌ ထိုင်းမှိုင်းခြင်း၊ မောဟအငွေ့အသက်နည်းပါး၍ အသိလိမ္မာဉာဏ်ပညာအလင်းဂုဏ်နှင့် ပြည့်စုံတတ်ပေသည်။ ထို့ပြင်လည်း ဆီမီးပူဇော်ရသောကုသိုလ်ထူးကြောင့် ဘဝများစွာတို့၌ သူတကာတို့ထက် အမြင်ထက်သန်သော မျက်စိမျိုးကိုရလေ့ရှိ၏။ အချို့အချို့သောဘဝတို့၌ စက္ခုသိဒ္ဓိ–ဟုခေါ်ဆိုလောက်သောအမြင်မျိုးနှင့်ပြည့်စုံရ၏။ ထိုမျက်စိဖြင့်အလိုရှိ၍ကြည့်လိုက်ပါလျှင် အလွန်ဝေးကွာသောအရပ်ဒေသရှိမျက်နှာတို့ကို ထင်လင်းစွာမြင်နိုင်လေသည်။ သစ်ပင်,တော,တောင်ကွယ်၍နေစေကာမူ ထင်ရှားစွာမြင်နိုင်သည်ဟူ၏။ တစ်နည်းအားဖြင့် ဆီမီးဆိုသည်မှာ အလင်းကိုဖြစ်စေနိုင်သောကြောင့် မျက်စိနှင့်တူလေရာ ဆီမီးအလင်းရောင်ကိုပေးလှူလျှင် မျက်စိအလင်းကိုပေးလှူသည်မည်ကြောင်း ဘုရားရှင်ဟောကြားတော်မူပါသည်–*၂ စသည်ဖြင့်ဖြစ်ပါသည်။

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၇၄)။

*၂ လယ်တီဆရာတော်၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ ၅၅–၅၇)။

ဤသို့လျှင် ဆီမီးလှူကာမှုဖြင့် ဤဘုရားသာသနာ၌ ဒိဗ္ဗစက္ခုတေဒင်ရသော အရှင်အနုရုဒ္ဓါ မထေရ်ကဲ့သို့ နောင်ပွင့်လတ္တံ့ အရိမေတ္တေယျဘုရားရှင်တို့လက်ထက်တော်မှာလည်း ဒိဗ္ဗစက္ခုတေဒင်အရာကို သူတစ်ပါးဦး၍ရရှိရန် လယ်တီဆရာတော်ကြီးက ယခုသီတင်းကျွတ်အခါ၌ ပျားဖယောင်းတိုင် ကျောက်ဖယောင်းတိုင် တစ်တိုင်ဖြစ်စေ, နှစ်တိုင်ဖြစ်စေ ပါဝင်လှူဒါန်းပူဇော်ရန် တိုက်တွန်းနှိုးဆော်သော ဆီမီးမေတ္တာစာတစ်ပုဒ်ကိုလည်း ရေးသားတော်မူခဲ့ပါသည်။*[၁]

မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးထံမှ ဝိသုံဂါမအကြောင်းမေးမြန်းခြင်း

ဤအချိန်ကာလအတွင်း မန္တလေးမြို့၊ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးထံတော်မှ ဝိသုံဂါမသိမ်အကြောင်း အမေးလွှာတစ်စောင် လယ်တီဆရာတော်ထံသို့ရောက်လာခဲ့၏။ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးက ရန်ကုန်မြို့၊ ဗဟန်းရပ်ရှိ ကျောင်းတော်ရာမြေနှင့်စပ်၍ ဖြစ်ပေါ်လာသော ပြဿနာကိုအခြေတည်ပြီး မေးတော်မူခြင်းဖြစ်သည်။

ကျောင်းတော်ရာမြေဟုဆိုသဖြင့် ထိုကျောင်းတော်ရာ၏သာသနာအစကို ဖော်ပြပါဦးမည်။ သက္ကရာဇ်–၁၂၃၁ (အေဒီ–၁၈၆၉)ခုနှစ်တွင် မင်းတုန်းမင်းကြီးသည် မန္တလေးနေပြည်တော်အပါအဝင် အထက်မြန်မာနိုင်ငံ၌သာ သာသနာပွင့်လင်းပြီး၊ ရာမညတိုင်း အောက်ပိုင်းဒေသ၌ သာသနာပွင့်လင်းစေခြင်းငှာ အင်္ဂလိပ်အစိုးရထံသို့ ရန်ကုန်မြို့ပေါ်၌ သင့်လျော်သောမြေတစ်ကွက်ကို သာသနာမြေအဖြစ်တောင်းရာ ဗဟန်းရပ် ရွှေတိဂုံစေတီတော်အရှေ့မြောက်ဘက်၌ (ယခု–ကျောင်းတော်ရာ)မြေကွက်ကိုရရှိခဲ့လေသည်။ မင်းတုန်းမင်းကြီးက ကျောင်းတော်ဆောက်ရန် ရည်သန်၍လှူသော မြေနေရာဖြစ်၍ 'ကျောင်းတော်ရာ'ဟုခေါ်ခဲ့ကြ၏။*[၂]

ထိုကျောင်းတော်ရာမြေကို မင်းတုန်းမင်းကြီးက ရွှေကျင်ဆရာတော်ဘုရားအား ရေစက်ချ လှူဒါန်းတော်မူရာ ရွှေကျင်ဆရာတော်ကြီးက သက္ကရာဇ် ၁၂၄၂–ခုနှစ်၊ ပြာသိုလဆန်း ၅–ရက် (အေဒီ ၁၈၃၁–ခုနှစ်၊ ဇန်နဝါရီလ ၄–ရက်)တွင် တပည့်ဖြစ်သူအရှင်သာသန(အေဒီ ၁၈၄၂–၁၉၂၅)အား ဇလွန်မြို့၊ မင်းလှကြီးရွာမှ တာ–၇၀၀ ကွာသော နတ်လယ်ကူးတောရမှပြန်လည်ခေါ်ယူပြီး အပ်နှံသာသနာပြုစေ၏။ ထိုအခါမှစ၍ အရှင်သာသနသည် ရန်ကုန်မြို့၊ ကျောင်းတော်ရာတိုက်သို့ရောက်၍ 'ကျောင်းတော်ရာဆရာတော်'ဟု တွင်လေသည်။ သီပေါမင်းလက်ထက်၌ ကျောင်းတော်ရာဆရာတော်အား 'သာသနာလင်္ကာရသဒ္ဓမ္မာဘိဝံသကဝဇမဟာဓမ္မရာဇာဓိရာဇဂုရု'တံဆိပ်တော်ကို ဆက်ကပ်လှူဒါန်းခဲ့၏။ သီပေါမင်းပါတော်မူ၍ မြန်မာမင်းမရှိတော့ပြီဖြစ်သော

---

*[၁] လယ်တီဆရာတော်၏ မီးပွဲမေတ္တာစာကို ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၅၅)တွင်ရှုပါ။

*[၂] ဦးအာလောက၏ သာသနာဝင်ကျမ်း။ ဟံသာဝတီသတင်းစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၂၆–ခုနှစ်။ (စာမျက်နှာ–၈၈)၌ ထိုကျောင်းတော်ရာမြေကို ၁၂၄၀–ပြည့် (အေဒီ–၁၈၇၈)ခုနှစ်ကပင် အင်္ဂလိပ်အစိုးရက မင်းတုန်းမင်းကြီးလက်သို့လွှဲအပ်ခဲ့သည်ဟုပြ၏။ ဦးမာနိတသီရိ၏ ရွှေကျင်ဆရာတော်ဘုရားထေရုပ္ပတ္တိကျမ်း။ (စာမျက်နှာ–၁၉၉)၌ '၁၂၃၁ (အေဒီ–၁၈၆၉)ခုနှစ်က လွှဲအပ်သည်'ဟု ၁၂၃၃–ခုနှစ်၊ သီတင်းကျွတ်လဆုတ်ထုတ် မြန်မာဂေဇက်သတင်းစာကို ကိုးကားပြီး ပြဆိုထား၏။

အခါ လူရှင်းဒကာမရှိသဖြင့် ထိုကျောင်းတော်ရာကျောင်းတိုက်အတွင်းရှိ သိမ်မြေနှင့်စပ်၍ 'ဝိသုံဂါမမြောက်,မမြောက်' ဝိဝါဒစကားကွဲပြားပြောဆိုကြသောကြောင့် ကျောင်းတော်ရာ ဆရာတော်က မန္တလေးမြို့၊ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးထံ မေးလျှောက်ခဲ့ခြင်းဖြစ်သည်။

ဤသို့ မြေပိုင်ပေးမှုသည် မင်းပြောင်းမင်းလွဲကာလဖြစ်သည့်အတွင်း ပြဿနာဖြစ်စမြဲပင်။ မန္တလေးမြို့တွင်လည်း သက္ကရာဇ် ၁၂၄၈ (အေဒီ–၁၈၈၆) ခုနှစ်ကပင် မြောက်ပြင်စံကျောင်း ဆရာတော်ဘုရားကြီးက မန္တလေးအရေးပိုင်ထံသို့ 'မြန်မာမင်းလက်ထက်ကပေးထားသော စံကျောင်းတိုက်၏ ဝိသုံဂါမ သိမ်အမိန့်တော်စာကိုပြ၍ ဤစာအတိုင်း ဘုရင်မထံသို့အမိန့်တောင်း ပေးစေလိုကြောင်း အမိန့်ရှိတော်မူလျှင်၊ မန္တလေးအရေးပိုင်က ထိုစာကိုဖတ်ကြည့်ပြီး 'မြန်မာ မင်းတို့ပေးလှူထားသည်ကို ကျွန်ုပ်တို့မဖျက်ဆီးပါ၊ မြန်မာမင်းတို့ပေးလှူထားသည့်အတိုင်း ထပ်မံ၍ ပေးပါ၏' ဟုအကြောင်းပြန်ကြား လျှောက်ထားဖူးပါသည်။

သက္ကရာဇ်–၁၂၅၁ (အေဒီ–၁၈၈၉)ခုနှစ်တွင် တောင်ခွင်သာသနာပိုင်ဆရာတော်ကြီးကလည်း မန္တလေးအရေးပိုင်ထံ မြန်မာမင်းတို့လက်ထက်ကပေးထားသော မြေပေးပုံကိုပြသပြောဆိုစေရာ မန္တလေးအရေးပိုင်က ဘုရင်မကြီးက ၎င်းတို့အား မြေပေးခွင့်အမိန့်ကိုလွှဲအပ်ထားသည်ဖြစ်၍ ဘုရင်မကြီးကိုယ်စားပေးနိုင်ပါကြောင်း ပြန်လည်လျှောက်ထားခဲ့ပါသည်။

အထက်ဖော်ပြသည့်အတိုင်း မင်းပြောင်းမင်းလွဲကာလအတွင်း မြို့ရွာတို့ပြုပြင်အုပ်ချုပ် နေကြရသည်ဖြစ်ရာ ဝိသုံဂါမမြေပြဿနာမျိုးသည်လည်း ဖြစ်ပေါ်ရမည်သာဖြစ်သည်။ မဟာ ဝိသုဒ္ဓါရုံဆရာတော်ကြီးက ထိုဝိသုံဂါမမြေကိစ္စကို မိမိတစ်ပါးတည်းမဆုံးဖြတ်မူဘဲ မိမိနှင့်အယူဝါဒ တူမျှသော မုံရွာမြို့ လယ်တီဆရာတော်ထံသို့လည်းကောင်း၊ မန္တလေးမြို့ရှိ မိုင်းခိုင်းဆရာတော်ခေါ် ရွှေရေးဆောင်ဆရာတော်ထံသို့လည်းကောင်း စာလွှာများစေ၍ မေးမြန်းစုံစမ်းတော်မူခဲ့ခြင်း ဖြစ်သည်။ ဤအကြောင်းတို့ကို မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးသည် ပကတိဂါမသီမာဒိ ဝိနိစ္ဆယ၏နိဂုံး၌– 'ရန်ကုန်မြို့ ကျောင်းတော်ရာမြေ ဝိသုံဂါမမြောက်,မမြောက် ကျောင်းတော်ရာ မဟာဓမ္မဒိပိကာရာမတိုက် ဆရာတော်ဦးသာသနလျှောက်သည်နှင့် စံကျောင်းတိုက် မိုင်းခိုင်း ဆရာတော်နှင့် မုံရွာလေ့ကူးနယ် လယ်တီတောရဆရာတော်တို့ထောက်ပံ့အပ်သည်ဖြစ်၍ တိုက် အတွင်းရှိ စာချပုဂ္ဂိုလ်တို့နှင့်တိုင်ပင်၍ မန္တလေးမြို့အရှေ့ပြင် ဆင်ဖြူမရှင်မယ်တော်ကသိုလ် တော် မဟာဘိတိုက် ဝိသုဒ္ဓါရာမဆရာတော်စီရင်ဆုံးဖြတ်အပ်သော ဂါမသိမ်အဆုံးအဖြတ်သည် ၁၂၅၂–ခုနှစ်၊ တော်သလင်းလဆန်း ၁၀–ရက်၊ စနေနေ့ (အေဒီ–၁၂၊စက်တင်ဘာလ၊၁၈၉၀) ခုနှစ် နေတက်တစ်ချက်တီးကျော် ၁၀–နာရီခွဲအချိန်တွင် ပြီးစီးအောင်မြင်သည်'ဟူ၍ မှတ်တမ်း တင်ဖော်ပြထားတော်မူခဲ့ပါသည်။*၁

---

*၁ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ ပကတိဂါမသီမာဒိဝိနိစ္ဆယ။ ဝိသုဒ္ဓါရုံအဆုံးအဖြတ်။ ၁၉၈၅–ခုနှစ်။ (စာမျက်နှာ ၁၉၆–၂၀၉)။ လယ်တီဆရာတော်ကြီးဖြေကြားသောအဖြေလွှာကို– သာသနဝိသောဓနီကျမ်း၊ ဒုတိယတွဲ။ ၁၉၅၄–ခုနှစ်၊ (စာမျက် နှာ–၂၄၂)။ မိုင်းခိုင်းဆရာတော်၏ အဖြေလွှာကို တိပေဋကဝိနိစ္ဆယကျမ်း၊ ဒုတိယတွဲ။ ၁၉၀၁–ခုနှစ်။ (စာမျက်နှာ– ၄၉၃)တို့၌ ကြည့်ရှုနိုင်ပါသည်။

ဥပသမ္ပဒကံဆောင်နည်း

သက္ကရာဇ် ၁၂၅၃–ခုနှစ်၊ ဝါလမတိုင်မီ (အေဒီ ၁၈၉၁–ခုနှစ်၊ ဇွန်လ) တွင် လယ်တီဆရာတော်သည် လယ်တီတောရနေတပည့်အပေါင်းတို့အား ဥပသမ္ပဒကံဆောင်နည်းသင်တန်းတစ်ခုကို လက်တွေ့ပြသ နည်းပေးတော်မူပါသည်။ ဥပသမ္ပဒကံ–ဆိုသည်မှာ ရဟန်းခံခြင်းကိစ္စပင်ဖြစ်သည်။ ထို ရဟန်းခံခြင်းကိစ္စ၌ ဝါတော်အတန်သင့်ရပြီဖြစ်သော ရဟန်းတို့ကိုခေါ်ယူပြီး ပုစ္ဆကရဏလေးပါး၊ ပုစ္ဆကိစ္စဆယ်ပါး၊ ပဓာနကိစ္စတစ်ပါး၊ အပရကိစ္စအကျဉ်းသုံးပါး, အကျယ်ကိုးပါးတို့ကို အနက်အဓိပ္ပာယ်, အကျိုးအပြစ်နှင့်တကွ ရှင်းလင်းပြသပေးတော်မူပါသည်။ ထို့ပြင် နောင်အစဉ်အလာကျန်ရစ်စေရန် စာအားဖြင့်လည်း ရေးသားပေးတော်မူခဲ့ပါသည်။*၁

သံဃဥပုသ်ပြုကြရမည်

လယ်တီဆရာတော်သည် လယ်တီတောရ၌ မိမိတစ်ပါးတည်းသီတင်းသုံးနေတော်မူစဉ်အခါက လပြည့်လကွယ်နေ့တိုင်း ပုဂ္ဂလအဓိဋ္ဌာန်ဥပုသ်ကိုပြုတော်မူထားပြီး၊ နောက်ပိုင်းတွင် မိမိနှင့်အယူဝါဒတူမျှသော တလုံးဆရာတော်ဦးဝါယာမိန္ဒထံကြွသွားကာ တလုံးတောရသိမ်၌ ဥပုသ်ပြုတော်မူလေ့ရှိပါသည်။

လယ်တီတောရကြီးအတွင်း၌ သံဃာနှစ်ပါး,သုံးပါး,လေးပါးအထိတိုးလာသောအခါ နှစ်ပါးတစ်တွဲ ပါရိသုဒ္ဓိဥပုသ်ပြုတော်မူခဲ့ကြ၏။ နောင် သံဃာတော်လေးပါးအထက် တိုးတက်ပွားများလာသည့်အခါ၌ သံဃဥပုသ်ပြုစေတော်မူပါသည်။

လယ်တီတောရအတွင်း၌သီတင်းသုံးလျက်ရှိကြသော သံဃာတော်တို့သည် ဓုတင်ဆောင်၍ တရားဘာဝနာအလုပ်ကို အချိန်ပြည့်အားထုတ်နေထိုင်ကြသောပုဂ္ဂိုလ်များဖြစ်၍ ‘ငါတို့သည် စင်ကြယ်နေတယ်၊ ငါတို့မှာ အကုသိုလ်မရှိ၊ သို့ဖြစ်၍ ဥပုသ်ပြုသွားရန်မလို’ဟူသော အတွေးအကြံမျိုးမဝင်မိကြစေခြင်းငှာ၊ ရဟန္တာအရှင်မဟာကပ္ပိနကို မြတ်စွာဘုရားရှင်က ‘ဂစ္ဆ တွံ သံဃကမ္မံ၊ မာ နော အဂမာသိ=သင်သည် ရဟန်းတို့ ဥပုသ်ကံပြုရာသို့သွားပါလော့၊ မသွားဘဲ မနေပါနှင့်’ဟု ခပ်တင်းတင်းပင်တိုက်တွန်းတော်မူသကဲ့သို့၊ လယ်တီဆရာတော်ကြီးကလည်း တိုက်သံဃာအပေါင်းတို့အား သံဃဥပုသ်ပြုကြရမည်’ဟု အလေးထားသြဝါဒပေးတော်မူခဲ့ပါသည်။ သံဃဥပုသ်ပြုခြင်းကို ‘အစင်ဆေးမှု’ဟူ၍ လယ်တီဆရာတော်က မိန့်ကြားလေ့ရှိပါသည်။*၂

ထို့ပြင် သံဃဥပုသ်ပြုရာသို့ တိုက်သံဃာစုံညီကြွလာကြရသည်ဖြစ်၍ သံဃာတို့၏ညီညွတ်မှုကို သရုပ်ပြခြင်းလည်းဖြစ်၏။ ထိုသို့ သံဃာတို့ စိတ်တူကိုယ်မျှညီညွတ်မှုရမှသာ တိုက်တာနှင့်

---

*၁ လယ်တီဆရာတော်ကြီး၏ ဥပသမ္ပဒဝိနိစ္ဆယ။ သာသနဝိသောဓနီကျမ်း၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၅၄)၌ ကြည့်ပါ။

*၂ ‘အစင်ဆေးရိုး၊ ဥပုသ်ကိုး၊ သုံးမျိုးသုံးထွေပြား’– လယ်တီဆရာတော်၏ ဝိနယသံခိပ်ကျမ်း။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁၆၀)။

တကွ သံဃာအပေါင်း၏ ချမ်းသာမှုတရားသည်လည်း 'သမဂ္ဂါနံ တပေါ သုခေါ'-ဟူသော သြဝါဒနှင့် အညီ ဖြစ်ပေါ်လာရမည်သာ။

ဥပုသ်ပြုသောအခါမှာလည်း ပါဠိတော်အဋ္ဌကထာစသည်တို့၌လာသည့်အတိုင်း ညဉ့်အခါ၌ ဥပုသ်ပြုကြရန်ကို နေမဝင်မီကပင် သိမ်အပြင်၌တံမြက်လှည်းခြင်း၊ နေရာခင်းခြင်း၊ ခြေဆေးရည် သောက်ရေတည်ခြင်းပြုစေတော်မူပါသည်။ ထို့ပြင် လပြည့်,လကွယ်ဥပုသ်နေ့အဖြစ်ကိုပြောကြား ရမည်ဖြစ်ရာ ဥပုသ်နေ့မှန်းမသိဘဲ မရှိကြစေရန် နေ့အဖို့ကပင် ကြိုတင်၍ တိုက်တာရှိသံဃာ တို့အား ကြောင့်ကြစိုက်ပြောကြားစေပါသည်။*၁

ပါတိမောက်ပြခြင်းနှင့်စပ်၍ သံဃာများတတ်သိလိမ္မာကျွမ်းကျင်စေရန် ပါတိမောက် အမေး အဖြေကို ရေးသားပေးတော်မူပါသည်။*၂ ထိုပါတိမောက်အမေးအဖြေနိဂုံး၌ 'ဓွဇဂ္ဂံ တဿ ဘဂဝတော' အစရှိသော ဘုရားရှင်ကိုယ်တော်မြတ်ကြီးမှာကြားအပ်သော သြဝါဒစကားကို လယ်တီဆရာတော်ကြီးက အောက်ပါအတိုင်း မြန်မာဘာသာဖြင့်တိုက်တွန်းစကားရေးသားပြီး နိဂုံးအုပ်တော်မူထားပါသည်။

'မဟာကမ္ဘာ အသင်္ချေကြာသော်လည်း တစ်ခါတစ်ရက် တစ်နံနက်လျှင် အိပ်မက်တွင်မျှ မမြင်ဖူးကြ ထူးမြတ်လှသော နဝမခေတ် ဤအဖြစ်ဝယ် ဓမ္မရာဇ် မင်းဖျား မြတ်ဘုရား၏ သားတော်အစစ် ဖြစ်ကြသည့်ခါ ဗာလအန္ဓ အစတုံး အစွန်းတုံး အဖြုန်းအဖျင်း လူတသင်းတို့၏ အမူအရာ ကာယကံ၏မငြိမ်သက်ခြင်း ဝစီကံ၏မငြိမ်သက်ခြင်း ကာယကံ၏မသိမ်မွေ့ခြင်း ဝစီကံ၏မသိမ်မွေ့ခြင်း ကာယကံ၏မသန့်ရှင်းခြင်း ဝစီကံ၏မသန့်ရှင်းခြင်း ရှန်းရင်းရိုင်းသောအလေ့ဝါသနာ မသမာသောအမူတွေကို နာနာနှိပ်ကွပ် အတင်းသတ်၍ ပညတ်တော်အလာ ယခုနာကြသော သိက္ခာပုဒ် သီလပရမတ် အလေးအမြတ်တို့ကိုသာ ကျပ်ကျပ် တည်းတည်း စောင့်စည်းသမှု အခြေစု၍ စတုပါရိသုဒ္ဓိသခင် အရှင်ကောင်းတစ်ဆူ ဖြစ်တော်မူကြမှ သမထဝိပဿနာ ရှစ်ဖြာဖိုလ်မဂ် ရဲရဲတက်သဖြင့် သက္ကာယ ဒိဋ္ဌိ အစရှိသော ကိလေသာငန်းမန်း အပြင်းဖမ်း၍ ချမ်းသာမငွေ့ မေ့ကြီးမေ့လျက် ယနေ့ထက်တိုင်မျှ နေကြရသော ဗာလပုထုဇဉ်အဖြစ်မှ စင်စစ်ထွက်မြောက် ချမ်းသာရောက်အောင် ကျင့်ဆောင်အားထုတ်တော်မူကြပါ အရှင်သူမြတ်တို့ဘုရား'- ဟူ၍ဖြစ်သည်။*၃

---

*၁ ဥပုသ်ပြုခြင်းနှင့်စပ်၍ လယ်တီတိုက်သံဃာတော်များကို သွန်သင်ပြသခဲ့သော ဝိနယသံခိပ်ဆောင်ပုဒ်တို့ကို လယ်တီ ဆရာတော်ကြီး၏ ဝိနယသံခိပ်ကျမ်း။ ၁၉၅၅-ခုနှစ်။ (စာမျက်နှာ ၁၆၀-၁၆၃)၌ရှုပါ။

*၂ လယ်တီဆရာတော်ကြီး၏ ပါတိမောက်အမေးအဖြေကို နိုင်ငံတွင်းပဋ္ဌာအဖြေပေါင်းချုပ်၊ ဒုတိယတွဲ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၇-ခုနှစ်။ (စာမျက်နှာ ၂၀၉-၂၁၉)တွင်ရှုပါ။

*၃ လယ်တီဆရာတော်ကြီး၏ ပါတိမောက်အမေးအဖြေ။ ယင်း။ ၁၉၅၇-ခုနှစ်။ (စာမျက်နှာ-၂၁၈)။

လယ်တီဆရာတော်ကြီးသည် မိမိ၏တိုက်တာအတွင်း တပည့်သံဃာများကို ရဟန်းဖြစ်လျက် ဥပုသ်ပဝါရဏာမှု၌ ကျွမ်းကျင်လိမ္မာစေရန် အထပ်ထပ်သင်ကြားပြသပေးပြီးလျှင် 'ရဟန်းဖြစ်ပါလျက် ဥပုသ်ပဝါရဏာမှုများ၌ မလိမ္မာခဲ့သော် အလွန်ရှက်ဖွယ်ကောင်းလှ၏' ဟူ၍လည်း ပွင့်ပွင့်လင်းလင်းမိန့်ကြားတော်မူခဲ့ပါသည်။*၁

ဝါဆိုဝါကပ်ပုံကိုလည်းပြသပေးခြင်း

- ပုရိမိကာ၊ ပစ္ဆိမာ၊ နှစ်ဖြာဝါကပ်နည်း။
- ဝါနှစ်လတွင်၊ လဆုတ်တစ်ရက်၊ ဝါကပ်ရက်၊ နှစ်ချက်စဉ်တိုင်းတည်း။
- ဝါထပ်ကြုံတွေ့၊ တစ်လရွှေ့၊ ရှေ့သို့တိုးသတည်း။
- လှည်း,လှေနှစ်ဖြာ၊ နွားခြံမှာ၊ ဝါကပ်ရသည်ချည်း။
- ရွာ၌ကပ်ရာ၊ ရွာသွားရာ၊ မကွာလိုက်သတည်း။*၂

အထက်ဖော်ပြပါ ဝါဆိုဝါကပ်ဆိုင်ရာ သံခိပ်လင်္ကာများကိုရေးသား၍ လယ်တီတိုက်သံဃာတို့အား ဝါဆိုဝါကပ်နည်းကိုလည်း သိရှိနားလည်ကျွမ်းကျင်စေရန် နည်းပေးတော်မူပါသည်။ ထို့ပြင် ဝါတွင်းအခါ၌ တစ်ရပ်တစ်ပါးသို့သွားပုံ၊ ဝါပန်ပုံ၊ ဝါဆိုစည်းသတ်မှတ်ပုံစသည့် ဝါဆိုဝါကပ်ဆိုင်ရာတို့ကိုလည်း ရှင်းလင်းပြသတော်မူပါသည်။ ထိုမျှမက လယ်တီတောရအတွင်း ဝါဆိုသင်္ကန်းကပ်ပွဲတွင် ရွတ်ဆိုကြရန်အတွက် ဝါဆိုသင်္ကန်းအမေးအဖြေ*၃ ကိုလည်း ရေးပေးတော်မူပါသည်။

ထိုဝါဆိုသင်္ကန်းအမေးအဖြေ၏နိဂုံး၌ လယ်တီတောရအတွင်းကပ်လှူကြသော ဝါဆိုသင်္ကန်းသည် မုံရွာလေ့ကူးနေ ဒကာ,ဒကာမများ၏ သူ့ထက်ငါ ပြင်ဆင်ပြုလုပ်လှူဒါန်းသော ဝါဆိုသင်္ကန်းဖြစ်ပုံကို အောက်ပါအတိုင်းရေးဖွဲ့ထားသည်မှာ—

'ဂန္ဓမာန၊ စိတြနှင့်၊ သုဒဿန၊ စသည်အမွန်၊ ဟေမဝန္တာ၊ မဟာဂနိုင်၊ မြိုင်အတုလွတ်၊ နဝတတ်ဘွေဆိုင်၊ နတ်ရေအိုင်က၊ တပြိုင်တည်းလွှတ်လိုက်သည့်၊ ကတွတ်ရေနှယ်၊ မြစ်ငယ်မြစ်ကြီး၊ အသီးသီးတို့တွင်၊ အုံ့ချီးမကုန်၊ သာမျိုးစုံသည့်၊ ယမုန်ဂင်္ဂါ၊ စံပမာဖြင့်၊ သလ္လာဝတီ၊ အမည်ရှိသော၊ နဒီရေရှင်၊ မြစ်စဉ်တလျှောက်၊ ကောက်ကောက်စင်းစင်း၊ ရပ်ခပင်းဝယ်၊ တသင်းဖြိုးမော်၊ ဟိုးဟိုးကျော်လျက်၊ ရှင်တော်ဘုရား၊ မိန့်မြွက်ဖော်ကြား၊ သုံးပါးသာသနာ၊ အဝါပြောင်ပြောင်၊ အရောင်ရွှန်းရွှန်း၊ အစဉ်ထွန်းလျက်၊ တောင်ကျွန်းဖေယျို၊ သပြေဘုံထက်၊ မုံရွာ–လေ့ကူး၊ အထူးကြေညာ၊ ရပ်ဂါမာ၌၊ သဒ္ဓါပွင့်လင်း၊ နှလုံးစင်းသည့်၊ သီတင်းဥပုသ်သည် ဒကာ,ဒကာမအပေါင်းတို့၊ ညွှတ်ညောင်းကြည်ဖြူ၊ သံသရာဘေး၊ ခန္ဓာနှင့်ဝေးစေဖို့၊

*၁ လယ်တီဆရာတော်၏ ဝိနယသံခိပ်ကျမ်း။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁၇၂)။

*၂ လယ်တီဆရာတော်၏ ဝိနယသံခိပ်ကျမ်း။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁၇၂)။

*၃ လယ်တီဆရာတော်ကြီး၏ ဝါဆိုသင်္ကန်းအမေးအဖြေကို နိုင်ငံတွင်းပုစ္ဆာအဖြေပေါင်းချုပ်၊ ဒုတိယအုပ်။ ၁၉၅၇–ခုနှစ်။ (စာမျက်နှာ ၂၂၁–၂၃၃)တွင်ရှုပါ။

အရေးယူလျက်၊ နိဗ္ဗူသောင်ကမ်း၊ ဘေးမသန်းသည့်၊ အေးချမ်းရာမှန်၊ ပြည်နိဗ္ဗာန်သို့၊ လျင်မြန်ရောက်ကြောင်း၊ ကုသိုလ်ဖောမြတ်၊ သောမနသ်ကို၊ မပြတ်လောင်းလျက်၊ အပေါင်းတူစုံ၊ မဂ္ဂင်ရှစ်ယာဉ်ပေါ်မှာ၊ ရွှင်ပျော်ပျော်အတူဆုံ၍၊ ခေမာဘုံနန်းအမတကို၊ လှမ်းကြမည်ကြံခဲလျက်၊ ထူးကဲသည့်ပုညာ၊ ခုဝါတွင်းသုံးလပတ်လုံး၊ နေ့ညဉ့်စဉ်မပြတ်၊ သက်နှံးစိတ်ဖောမြတ်နှင့်၊ သောမနသ်ရွှင်ရွှင်၊ သူ့ထက်ငါပြိုင်ဆင်၍၊ စီရင်ခါ ယက်ချုပ်၊ ရွှေဖန်ရေဆိုးအုပ်၍၊ ပြုလုပ်လှူဒါန်းသောသင်္ကန်းဖြစ်ပါသည်ဘုရား’– ဟူ၍ဖြစ်ပါသည်။*၁

**ဆဗ္ဗိသတိမဝါဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၅၃–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၉၁–ခုနှစ်၊ ဇူလိုင်လ)တွင် လယ်တီတောရကျောင်း ဆရာတော်အရှင်ဉာဏသည် (၂၆)ကြိမ်မြောက်ဆဗ္ဗိသတိမဝါကို လယ်တီတောရကျောင်းမှာပင် ကပ်ဆိုတော်မူခဲ့ပါသည်။

**အရှင်တိလောက*၂ ရောက်ရှိလာခြင်း**

ထိုစဉ်အခါက လယ်တီတောရသို့ အနယ်နယ်အရပ်ရပ်မှရောက်ရှိလာကြကုန်သော စာသင် သံဃာအပေါင်းတို့တွင် ထူးခြားသောအရှင်တစ်ပါး ပါရှိခဲ့ပြီး၊ ဘွဲ့အမည်မှာ အရှင်တိလောက ဖြစ်သည်။

ထိုအရှင်တိလောကသည် မုံရွာမြို့ ချင်းတွင်းမြစ်၏အနောက်ဘက် မြန်မာမင်းတို့လက်ထက် အခါက ဗန့်ကျီ(ပန်းချီဟုလည်း)ထင်ရှားသောတိုက်နယ်အဝင် ဆင်ရှင်စီရင်စု၊ ခေါ်သန္တိရွာ*၃ တွင် သက္ကရာဇ် ၁၂၃၃–ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၉–ရက် (အေဒီ–၂၁၊ အောက်တိုဘာလ၊ ၁၈၇၁)ခုနှစ်၌ အဘ–သူဌေးမျိုးရိုးဖြစ်သူ ဦးတက်ဖြိုး၊ အမိ–မင်းဆွေမင်းမျိုးဒေါ်သီတို့မှ ဖွားမြင်ခဲ့၏။*၄ ငယ်မည်မှာ မောင်ထွန်းဝဖြစ်သည်။ ရှင်သာမဏေပြုလောက်သောအရွယ်၌ ခေါ်သန္တိရွာ၏ တောင်ဘက် တစ်တိုင်(ယခုခေတ် ၂–မိုင်ခန့်)အကွာရှိ ငက်ပျောတောရွာမြောက်ကျောင်းဘုန်းကြီး ပထမစာတော်ပြန်အရှင်ဇဝနထံ၌ ရှင်သာမဏေပြုတော်မူပါသည်။ ထိုအရှင်ဇဝနမှာ မန္တလေးမြို့ မောင်းထောင်တိုက်မှ ပိဋကတ်သုံးပုံပြန်ပုဂ္ဂိုလ်လည်းဖြစ်၏။ ရှင်တိလောကသည် ဥပဇ္ဈာယ်ဆရာ အရှင်ဇဝနထံမှာပင် ရဟန်းခံတော်မူခဲ့၏။*၅

*၁ လယ်တီဆရာတော်၏ နိုင်ငံတွင်းပုစ္ဆာအဖြေပေါင်းချုပ်၊ ဒုတိယတွဲ။ ၁၉၅၇–ခုနှစ်။ (စာမျက်နှာ–၂၃၃)။

*၂ ထိုအရှင်တိလောကသည် နောင်အခါ သေဘ္ဘုတောင်ဆရာတော်ဦးတိလောကဟု ထင်ရှားခဲ့သောဆရာတော်ကြီးဖြစ်ပါသည်။

*၃ ယခု–ပုလဲမြို့နယ်ရှိ ခေါ်သန္တိ ကျေးရွာ။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၃၁၄)။ ဦးတင်မြင့်၏ ဗန့်ကျီကိုလှမ်းပါလို့ ပခန်းကိုဝင်ခဲ့တယ်။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၁၉၉၃–ခုနှစ်။ (စာမျက်နှာ–၁၇)။

*၄ ဓမ္မာစရိယဦးဌေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ။ (စာမျက်နှာ–၄၈၂)။

*၅ အရှင်တိလောက၏ ပဏ္ဍိတဝေဒနိယဒီပနီကျမ်း။ ၁၉၉၄–ခုနှစ်။ (စာမျက်နှာ–၅၇)။ ‘ရဟန်းတစ်ဝါရလျှင် ပရိတ္တဋီကာသစ်ပါဌ်ကိုရေးသည်’–ဟု လယ်တီဦးလှပိုင်၏ ပခန်းသာသနာဝင်။ ၁၉၈၁–ခုနှစ်။ (စာမျက်နှာ–၂၇၄)၌ ပြဆိုထား၏။

အရှင်တိလောကသည် ဥပဇ္ဈာယ်ဆရာတော်ထံပါး၌ ရဟန်းတစ်ဝါရပြီးသည်အထိ ပရိယတ်စာပေကိုလည်းသင်ယူခဲ့ပြီးနောက် ကြီးမြတ်သောဉာဏ်ပညာရှိ၍ ပိဋကတ်သုံးပုံအလုံးစုံကို အကုန်တတ်မြောက် ကမ်းတစ်ဖက်ရောက်သော ကလျာဏမိတ်ဆရာကိုရှာဖွေရန်ဟူသောစိတ်ဖြင့် ဇာတိရပ်ရွာမှ တစ်ပါးတည်းစာပုလွေထမ်း၍ထွက်ခဲ့ရာ၊ မုံရွာမြို့ လယ်တီတောရစာသင်တိုက်ကြီး၌ သီတင်းသုံးနေတော်မူသော လယ်တီဆရာတော်၏ခြေတော်ရင်းသို့ရောက်ရှိခဲ့ပါ၏။ အရှင်တိလောကသည် လယ်တီဆရာတော်ထံပါး၌နေထိုင်ကာ ရူပသိဒ္ဓိ၊ သဒ္ဒနီတိ၊ မောဂ္ဂလ္လာန်၊ လောကီသဒ္ဒါကျမ်းတို့နှင့်တကွ ပိဋကတ်တော်ကို နားလည်တတ်မြောက်အောင်သင်ယူခဲ့ပါသည်။[*၁]

ထိုအချိန်က ရှင်တိလောကနှင့်အတူ လယ်တီဆရာတော်ထံတော်ပါး၌ ပညာရင်နို့သောက်စို့တော်မူကြသောထေရ်ရှင်တို့ကား– (၁) အရှင်တိလောက၊ (၂) အရှင်နန္ဒိယ၊[*၂] (၃) အရှင်သူရိန္ဒ၊[*၃] (၄) အရှင်ကဝိ[*၄]–တို့ဖြစ်ကြပါသည်။ ဤအရှင်လေးပါးသည် လယ်တီကျောင်းတိုက်ကြီးအတွင်း၌ အတူနေဖြစ်ကြ၍ တစ်ပါးကိုတစ်ပါး အထူးချစ်ခင်လေးမြတ်ကြ၏။

ဤအရှင်လေးပါးတို့တွင် အရှင်တိလောကသည်ကား ဖွဲလုံ့လကြီးမားလွန်း၍ ရှာမှရှားသည့်ပြင် ဖွဲလုံ့လအရာ၌စံတင်လောက်သည်ဟုပင် ချီးမွမ်းခြင်းခံခဲ့ရ၏။ နေ့အခါကိုမဆိုထားဘိ၊ ညအချိန်မှာပင် အရှင်တိလောက ကျိန်းစက်နေသည်ဟူ၍ မရှိလှပေ။ သူတကာအိပ်ချိန်တွင် အရှင်တိလောကသည် အများနှင့်ရော၍ ခေါင်းမြီးခြုံအိပ်နေတတ်သော်လည်း တကယ်တန်းမအိပ်။ နှုတ်မှတတွတ်တွတ် မနေမနားရွတ်ဖတ်သရဇ္ဈာယ်နေသည်ချည်းသာ။[*၅] အရှင်တိလောကသည် လယ်တီဆရာတော်ထံတော်ပါး၌ တစ်ဝါခန့်နေ၍သင်ယူလျှင်ပင် 'ပိဋကတ်နိကာယစုံမြောက်မြားစွာတတ်မြောက်သည်'ဟု စကားအစဉ်တွင်ခဲ့လေသည်။[*၆]

---

[*၁] အရှင်တိလောက၏ ပဏ္ဍိတဝေဒနိယဒီပနီကျမ်း။ ၁၉၉၄–ခုနှစ်။ (စာမျက်နှာ–၅၇)။ 'ဦးတိလောကသည် ၁၂၅၃–ခုနှစ်၊ နယုန်လ (အေဒီ ၁၈၉၁–ခုနှစ်၊ လ)တွင် ဘုန်းကြီးဦးဇဝနကိုဥပဇ္ဈာယ်ပြု၍ ရဟန်းဝတ်ခဲ့ပြီး၊ ထိုနှစ် ဝါဆိုလမှာပင် မုံရွာမြို့၊ လယ်တီတိုက်သို့ရောက်ရှိကြောင်း' လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၃၁၅)၌ ဖော်ပြထား၏။

[*၂] ထိုအရှင်နန္ဒိယသည် ဟံသာဝတီခရိုင်၊ သပြေကန်၊ ညောင်ပင်ရွာ သုံးထပ်ကျောင်းဆရာတော်ဦးတေဇဝန္တ (ဖားကူးဂိုဏ်းထောက်)၏ တပည့်ဖြစ်၍၊ နောင်အခါ၌ လှဘီလူးဦးနန္ဒိယဟုတွင်၏။ အရှင်အာစိဏ္ဏ၏ မဟာထေရာစိဏ္ဏဇာတ်တော်။ (စာမျက်နှာ–၅၁)။

[*၃] အရှင်သူရိန္ဒကား ကွမ်းခြံကုန်းမြို့ ကွင်းချောင်းဘုန်းကြီး–ဟုပင်ထင်ရှားတော်မူခဲ့၏။ အရှင်သူရိန္ဒကား သက္ကရာဇ် ၁၂၄၈ (အေဒီ ၁၈၈၆–ခုနှစ်) ကပင် လယ်တီဆရာတော်ဘုရားကြီးထံပါးသို့ရောက်တော်မူခဲ့ဟန်ရှိ၏။

[*၄] အရှင်ကဝိကား ဒီပဲယင်းတောင်လက်၊ အိမ်ရာရွာဇာတိဖြစ်၍ နောင်အခါ– သဂြိုဟ်မဟာဋီကာသစ်နိဿယကျမ်းပြု လယ်ဇင်ရွာ ဓမ္မိကာရုံကျောင်းဘုန်းကြီးဖြစ်၏။

[*၅] အရှင်အာစိဏ္ဏ၏ မဟာထေရာစိဏ္ဏဇာတ်တော်။ (စာမျက်နှာ–၅၁)။

[*၆] လယ်တီဦးလှပိုင်၏ ပုခန်းသာသနာဝင်။ ၁၉၈၁–ခုနှစ်။ (စာမျက်နှာ–၂၇၅)။

### အရှင်ကုလ္လန္တကကိုခေါ်ယူတော်မူခြင်း

မန္တလေးမြို့၊ စံကျောင်းတိုက်၌ လယ်တီဆရာတော်နေစဉ်အခါက သဒ္ဒိဝိဟာရိကတပည့် ဖြစ်ခဲ့သူ အရှင်ကုလ္လန္တကသည် မန္တလေးမြို့၊ ဆီးပန်းနီတိုက်ဆရာတော်ကြီးထံ ပညာသင်ယူနေခဲ့ရာ၊ ရဟန်း(၉)ဝါရရှိခဲ့ပြီဖြစ်သည်။

လယ်တီတောရတိုက်၌ တစ်နေ့ထက်တစ်နေ့ ပို၍စာလိုက်သံဃာများပြားလာသောအခါ စာချပို့ချကူညီရန်အလို့ငှာ အရှင်ကုလ္လန္တကကို လယ်တီဆရာတော်က မုံရွာလယ်တီတောရသို့ ပြန်ကြွခဲ့ရန် မှာကြားခဲ့၏။ အရှင်ကုလ္လန္တကသည် ထို ၁၂၅၃–ခုနှစ်ဦး(အေဒီ ၁၈၉၁–ခုနှစ်၊ ဧပြီလ)မှာပင် မုံရွာမြို့ လယ်တီတောရတိုက်သို့ရောက်ရှိတော်မူခဲ့သည်။

မုံရွာမြို့၊ လယ်တီတောရသို့ အရှင်ကုလ္လန္တကရောက်သည်နှင့် လယ်တီဆရာတော်က– ‘မောင်ကုလ္လန္တကသည် ဤလယ်တီတိုက်တွင် ရဟန်းငယ်များအားစာပေပို့ချရမည်’ဟု အမိန့်ရှိတော်မူပါသည်။

ထိုအခါ အရှင်ကုလ္လန္တကသည် လက်အုပ်ချီမိုးလျက် ‘ဘုန်းတော်ကြီးဘုရား၊ တပည့်တော်၏ ငယ်ဆရာ (မူလကိုရင်ဥပဇ္ဈာယ် ကျည်းပင်ချောင်ဆရာတော်ဦးမုနိန္ဒကိုဆိုလိုသည်)နှင့် တပည့်တော်၏ခမည်းတော်တို့ တပည့်တော်၏လက်ပေါ်တွင် ကွယ်လွန်ခဲ့ကြပါသည်ဘုရား၊ ဤသို့ ကျေးဇူးရှင်နှစ်ပါးအား သေမင်း၏ခေါ်ယူမှုကို ဒိဋ္ဌတွေ့မြင်သည်မှစ၍ ဘုရားတပည့်တော်သည် သေမင်းဝင်္ဂမှကျွတ်လွတ်မြောက်စေခြင်းငှာ လွတ်လမ်းကိုရှာလျက်ရှိပါသည်ဘုရား၊ ထိုသေမင်း၏ လက်မှ လွတ်မြောက်စေအံ့ဟုလည်း ကြုံဝါးလျက်ရှိပါသည်ဘုရား၊ သို့ပါ၍ တပည့်တော်ကို စာချဝတ်မှခွင့်လွှတ်သနားတော်မူ၍ သေမင်းလက်မှကျွတ်လွတ်နိုင်သော ကမ္မဋ္ဌာန်းဝိပဿနာ အလုပ်ကိုသာ အားထုတ်ကြိုးပမ်းခွင့်ပြုတော်မူပါဘုရား’ဟု ရိုသေစွာလျှောက်ထားခဲ့လေသည်။*၁

### ငယ်ရွယ်စဉ်တရားအားထုတ်ပါ

လယ်တီဆရာတော်သည် မိမိ၏အစီအမံအတိုင်းမဖြစ်စေကာမူ အရှင်ကုလ္လန္တက၏ သံသရာ ဝဋ်ဆင်းရဲမှ ကျွတ်လွတ်ပေါက်မြောက်လိုသော နေက္ခမ္မဇ္ဈာသယကို အလွန်အားရကျေနပ်ခဲ့ပါ သည်။ အမှန်ဆိုသော် လယ်တီဆရာတော်၏စိတ်အတွင်း၌ရည်ရွယ်ထားသည်မှာ အရှင်ကုလ္လန္တက သည် သိက္ခာ(၉)ဝါခန့်ရှိပြီး၊ စာပေပရိယတ်ဘက်ကလည်း မန္တလေးမင်းနေပြည်တော် စာချ အကျော်ဆရာတော်ကြီးများထံမှ နည်းနာခံယူသောကြောင့် ပြည့်စုံပြီဟုမှတ်ယူနိုင်လေရာ မိမိတို့ ဆရာတပည့် အတူတွဲကာ လယ်တီတောရတိုက်ကြီး၌ ပရိယတ္တိသာသနာကြီးကို ထူထောင် လိုက်ပါမူကား ကောင်းကင်နေလ,တောင်ထိပ်မီးတင်ဆိုသကဲ့သို့ ပရိယတ်သာသနာမီးအစွန်း၌ ဝင့်ထယ်လိမ့်မည်ဟုဖြစ်သည်၊ သို့ပါသော် လယ်တီဆရာတော်သည် မိမိကိုယ်တော်တိုင် စံကျောင်း

---

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၂၈၇)။

တိုက်၌နေစဉ် မိမိ၏နိဿယာစရိယ စလင်းဆရာတော် မန္တလေးမြို့မှ မကွေးမြို့သို့ ပြန်ကြွသောအခါ 'မကွေးမြို့မှာဖြစ်စေ၊ စလင်းမြို့မှာဖြစ်စေ တို့ဆရာတပည့်နှစ်ဦး သာသနာပြုကြပါစို့' ဟုခေါ်ယူရာ ငြင်းပယ်ခဲ့ဘူးသည်ကိုသတိရတော်မူပြီး၊ အရှင်ဣန္ဒကာ၏စာချဝတ်ငြင်းပယ်ခြင်းကို သည်းခံခွင့်လွှတ်တော်မူခဲ့ပါသည်။

စင်စစ် တရားဘာဝနာအားထုတ်မှုလုပ်ငန်းသည် အရွယ်ရှိတုန်း၊ အသိတရားကောင်းတုန်း၊ စိတ်ဓာတ်တက်ကြွ လူကျန်းမာတုန်း အားထုတ်ရသောအလုပ်မျိုးဖြစ်သည်။ တေမိယဇာတ်လာ-

ယုဝါစရေ ဗြဟ္မစာရိယံ၊ ဗြဟ္မစာရီ ယုဝါ သိယာ၊
ယုဝဿ ဗြဟ္မစာရိယံ၊ တံ ဗုဒ္ဓေဟိ ဝဏ္ဏိတံ။ ။

(ဇာတက၊ ၂။၁၅၇။ ဇာ၊ ဋ္ဌ၊ ၆။၃၂။)။

ဟူသောဂါထာနှင့်အညီ ငယ်ရွယ်နုနယ်စဉ်ကပင် ရဟန်းပြုသောသူကို ဘုရားစသော သူတော်ကောင်းတို့ ချီးမွမ်းတော်မူပါသည်။ စတုဓမ္မသာရကိုးခန်းပျို့၌လည်း-

'တောင်ညွန့်ကုန်းထက်၊ ကမ်းရိုးသက်ဝယ်၊ အနက်ပြည့်ဖြိုး၊ ရေပြည့်အိုးကို၊ ကြိုးကြိုးပမ်းပမ်း၊ မဖိတ်ထမ်းသည်၊ လူစွမ်းသဖွယ်၊ ပျိုနုနယ်က၊ စင်ကြယ်သိမ်မွေ့၊ ရသေ့ရဟန်း၊ ဖြစ်ထွန်းလေငြား၊ ထိုသူ့အားကို၊ ဘုရားအစ၊ ပဏ္ဍိတတို့၊ လွန်လှကြည်ညို၊ ချီးမွမ်းဆို၏' ဟူ၍ အရှင်မဟာရဋ္ဌသာရ စပ်ဆိုခဲ့ပေသည်။

သို့ပါ၍ လယ်တီဆရာတော်သည် အရှင်ဣန္ဒကကို တိုက်တာအုပ်ချုပ်ရေး၊ စာသင်စာချရေး ဟူသောအရေးတို့၌မနှစ်မြုပ်စေဘဲ အားထုတ်လိုသောတရားရှာလုပ်ငန်းစဉ်ကို သာဓုအကြိမ်ကြိမ် ခေါ်ဆိုကာ ခွင့်ပြုတော်မူခဲ့ပါသည်။

## အရှင်ဣန္ဒက တောရဆောက်တည်ပြီ

သက္ကရာဇ် ၁၂၅၃-ခုနှစ်၊ နယုန်လပြည့် (အေဒီ-၂၁၊ မေလ၊ ၁၈၉၁)ခုနှစ် ဥပုသ်ပြုအပြီးတွင် အရှင်ဣန္ဒကသည် မိမိ၏ဥပဇ္ဈာစရိယ လယ်တီဆရာတော်ကို ဦးညွတ်ရှိကျိုး နည်းအမျိုးမျိုးဖြင့် ရှိခိုးကန်တော့ပြီးလျှင် 'ယနေ့ပင် တောရဆောက်တည်ခွင့်ပြုပါမည့်အကြောင်း' ရိုသေစွာခွင့်ပန်လျှောက်ထားရာ၊ ဆရာတော်ကလည်း သံဃာ့ပရိသတ်အလယ်မှာ မာရ်စစ်တပ်ကြီးကို အနိုင်တိုက်ရန် စစ်ပြင်စစ်ထွက်မည့် တပည့်အရှင်ဣန္ဒကအား 'တရားအားထုတ်မည့်ပုဂ္ဂိုလ်(တစ်နည်း) တရားထူးရှာမည့်ပုဂ္ဂိုလ်သည် ဘုရားရှင်လက်ထက်တော်အခါက ရှင်ပုဏ္ဏမထေရ်ကဲ့သို့ ခန္တီတရားကို ရှေးဦးလက်ကိုင်ထားရမည်ဖြစ်ကြောင်း၊ တရားအားထုတ်ရာတွင်လည်း တောင်ပို့လို ဥပမာထား၍ တံခါးခြောက်ပေါက်၌ တစ်ပေါက်ကိုသာဖွင့်ပြီး စိတ်ကိုသန္နိဋ္ဌာကဖြစ်အောင် ရှုရမည့်အကြောင်း ကျယ်ပြန့်စွာဟောကြား နည်းပေးဆုံးမတော်မူလျက် သာဓုအကြိမ်ကြိမ် ခေါ်ဆိုတော်မူခဲ့လေ၏။ တရားအားထုတ်ရာ၌ အခက်အခဲရှိလျှင် အကြောင်းကြားပင့်ခေါ်ရန်ကိုလည်း ခွင့်ပေးသနားတော်မူလေ၏။

ဤသို့ ဆရာသမားက ကြည်ဖြူသာယာခွင့်ပြုလေလျှင် အရှင်ကဿကသည် ဝမ်းမြောက် ဝမ်းသာစွာဖြင့်– ငှက်သည် အတောင်မှတပါး အခြားသောဝန်မပါ ဆိုသကဲ့သို့ သပိတ်တစ်လုံး သုံးထည်သောသင်္ကန်းတို့ဖြင့် မုံရွာမြို့ လယ်တီတောရတိုက်မှနေ၍ ထွက်ခွာတော်မူခဲ့ပါသည်။

## ပဓာနသုတ်တရားတော်

လယ်တီဆရာတော်ကြီး အရှင်ကဿကကိုယ်တော်အား တောရဆောက်တည်ခွင့်ပြုတော်မူ ပြီးနောက် လယ်တီတောရအတွင်းရှိ ရှင်ရဟန်းအပေါင်းတို့သည်လည်း အရှင်ကဿကကဲ့သို့ တောရဆောက်တည်လိုသောစိတ်ဆန္ဒများဖြစ်ပေါ်လာကြသည်။ လယ်တီဆရာတော်က တိုက် သံဃာအပေါင်းအား ဝတ္ထုကာမတို့ကိုစွန့်လွှတ်ပြီး တောရဆောက်တည်ခြင်းဟူသော နေကြမှု ပါရမီသည် ကျင့်နိုင်ရန်ခဲယဉ်းပုံကို မိန့်ကြားတော်မူပါသည်။

ထို့ပြင် ဝတ္ထုကာမတို့ကိုစွန့်လွှတ်ရန်းထွက်ရာ၌ မာရ်နတ်၏ရှေ့တန်းခံတပ်ကြီးဆယ်တပ်ကို တစ်တပ်ပြီးတစ်တပ်ဖြတ်ကျော်၍ ရုန်းထွက်ကြရသည်ကို ရှင်းလင်းစွာသိကြစေရန် ခုဒ္ဒကနိကာယ် သုတ္တနိပါတပါဠိတော်လာ ပဓာနသုတ်ကို အနက်မြန်မာနှင့်တွဲလျက် ရှင်းလင်းဟောကြားတော် မူပါသည်။*၂

## ထူးခြားသော ပဓာနသုတ်နိဂုံးဂါထာ

လယ်တီဆရာတော်ကြီးသည် တောရဆောက်တည်လိုသောတပည့်တို့အတွက် မာရ်နတ်၏ တပ်ကြီးဆယ်တပ်၌ မပြိုလဲကြစေရန်ရည်ရွယ်၍ဟောကြားအပ်သော ပဓာနသုတ်တရားအသုံး နိဂုံး၌ အောက်ပါဂါထာသုံးပုဒ်ကိုရေး၍ ဆုတောင်းတော်မူခဲ့သည်။ ဤဆုတောင်းတို့ကိုကြည့် ခြင်းဖြင့် လယ်တီတောရဆရာတော်အရှင်ဉာဏ ရောက်ဆဲဖြစ်သောအခြေအနေကို အကဲခတ် နိုင်ကြလိမ့်မည်ဟု ယူဆမိပါသည်။

* ပဓာနံ ပူဇယိတွာန၊ ယံ လဒ္ဓံ ကုသလံ မယာ။
တဿ တေဇေန တံ စ ညံ၊ ဇဟေယျံ ဣဓ ဇာတိယံ။

* သဒ္ဓမ္မသရီရာ ဟောန္တု၊ ဘိက္ခူ သဒ္ဓမ္မဖိဝိနော။
ဘဝဘောဂေသု သဗ္ဗေသု၊ နိဗ္ဗိန္နဟဒယာ သဒါ။

* ဒေဝေါ ဝဿတု ကာလေန၊ ရာဇာရက္ခတု မေဒနိံ။
သဗ္ဗေ အနာမယာ သတ္တာ၊ မောဒန္တု အကုတောဘယာ။ ။

– အဟံ–မုံရွာမြို့ လယ်တီတောကျောင်းဆရာငါသည်၊ ပဓာနံ–သုတ္တနိပါတ်ပါဠိတော် လာ ပဓာနသုတ်ပါဠိတော်မြတ်ကို၊ ပူဇယိတွာန–ပူဇော်ပြီး၍၊ ယံ ကုသလံ–အကြင် ကုသိုလ်ကို၊ လဒ္ဓံ–ရအပ်ပြီ။ တဿ–ထိုကုသိုလ်၏၊ တေဇေန–တန်ခိုးကြောင့်

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များသမိုင်း။ (စာမျက်နှာ–၂၈၇)။ ဓမ္မာစရိယဦးငွေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူး များ။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၃၈၀)။

*၂ လယ်တီဆရာတော်ကြီး၏ ပဓာနသုတ်ပါဠ်နိဿယကို သောမနဿပေက္ခာဒီပနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၅၁–ခုနှစ်။ (စာမျက်နှာ ၁၅၁–၁၈၅)တွင်လည်းရှုပါ။

တဠ–ထိုကုသိုလ်ကိုလည်းကောင်း၊ အညဠ–သည်မှတပါးသော ကုသိုလ်စုကိုလည်းကောင်း၊ က္ခဇာတိယံ–ဤယခုဘဝ၌၊ ဖဟေယျံ–စွန့်နိုင်ရလိုသော။

- ဘိက္ခူ–ယခုနောင်လာ သာသနာထမ်း ရဟန်းတော်တို့သည်၊ သဗ္ဗေသု–အလုံးစုံကုန်သော၊ ဘဝဘောဂေသု–ဘဝစည်းစိမ်တို့၌၊ နိဗ္ဗိန္ဒဟဒယာ=လူပုပ်,ခွေးပုပ်,မစင်ပုပ်သို့ စက်ဆုတ်ငြီးငွေ့သော စိတ်နှလုံးရှိကြကုန်သည်ဖြစ်၍၊ သဒ္ဓမ္မသရီရာ–အဓိသီလ, အဓိစိတ္တ,အဓိပညာ သာသနာသုံးပါးကို အားပြု၍နေကြကုန်သည်၊ ဟောန္တု–ဖြစ်ပါစေကုန်သတည်း။ သဒ္ဓမ္မဇီဝိနော–အဓိသီလ, အဓိစိတ္တ, အဓိပညာ သာသနာသုံးပါးကိုသာ အသက်ပြု၍နေကြကုန်သည်၊ ဟောန္တု–ဖြစ်ပါစေကုန်သတည်း။
- ဒေဝေါ–မိုးသည်၊ ကာလေန–ရွာချိန်သင့်သောအခါ၌၊ ဝဿတု–အရည်ထန်စွာရွာပါစေသတည်း။ ရာဇာ–တိုင်းရှင်ပြည့်ရှင် ဘုရင်ထီးဆောင်း မင်းအပေါင်းသည်၊ မေဒနိံ–တိုင်းသူပြည်သူ ရှင်လူသိမ်းကြုံး မြေအလုံးကို၊ ရက္ခတု–ရင်ဝယ်သားသို့ တရားသဖြင့် အသင့်စောင့်ရှောက်ပါစေသတည်း။ သဗ္ဗေ–တစ်ယောက်မကြွင်း ခပင်းဥဿုံ အလုံးစုံကုန်သော၊ သတ္တာ–သတ္တဝါတို့သည်၊ အနာမယာ–ကိုယ်တွင်းရောဂါ အနာမျိုးကိုးဆယ့်ခြောက်ဝ ကင်းရှင်းကြကုန်သည်ဖြစ်၍လည်းကောင်း၊ အကုတောဘယာ–ရာဇ,စောရ,အဂ္ဂိစသား အပယသန္တာန် ဘေးရန်တစိ ဘယ်မရှိကြကုန်သည်ဖြစ်၍လည်းကောင်း၊ မောဒန္တု–တက်သစ်လဝန်း ပွင့်သစ်ပန်းသို့ လန်းလန်းရွှင်ရွှင် ကြည်လင်ဝမ်းမြောက်ကြပါစေကုန်သတည်း–*၁ ဟူ၍ဖြစ်သည်။

**တရားထောက်ဆရာသဲကြီး**

လယ်တီဆရာတော်ကြီး မုံရွာမြို့ ရွှေစည်းခုံကျောင်းတိုက်၊ လောကမာရဇိန်တောင်ကုန်းဘုရား၊ သင်္ဂြိုဟ်ဦးဝိုင်းကျောင်း–စသည့်ကျောင်းကန်ဌာနတို့၌သီတင်းသုံးစဉ်အခါက ပဏ္ဍာသမဏရှင်ရဟန်းတပည့်တို့သာအနီး၌ရှိခဲ့ပြီး၊ ယခု သက္ကရာဇ် ၁၂၅၃ (အေဒီ–၁၈၉၁) ခုနှစ်တွင်ကား လယ်တီတောရ ဆရာတော်ကြီး၏ဝေယျာဝစ္စကို အချိန်ပြည့်လုပ်ကိုင်ဆောင်ရွက်ပေးမည့် လူဥပဋ္ဌာကပုဂ္ဂိုလ်တစ်ဦး ပေါ်ထွန်းလာခဲ့ပါသည်။ ထိုပုဂ္ဂိုလ်ကား နောင်အခါ လယ်တီဓမ္မကထိကအဘိဓမ္မာဆရာသဲကြီး (အေဒီ ၁၈၆၁–၁၉၄၅)ဟု ထင်ရှားလာမည့်ပုဂ္ဂိုလ်ဖြစ်သည်။

ဆရာသဲသည် သက္ကရာဇ် ၁၂၂၃–ခုနှစ်၊ ကဆုန်လဆန်း ၅–ရက် (အေဒီ–၁၁၊ ဧပြီလ၊ ၁၈၆၁) ခုနှစ်တွင် မန္တလေးမြို့၌မွေးဖွား၍ မန္တလေးမြို့ကာလပျက်ချိန်(အေဒီ ၁၈၈၆–ခုနှစ်)တွင် မုံရွာမြို့သို့ ရွှေ့ပြောင်း လာခဲ့ပြီး မုံရွာမြို့သူဒေါ်ခန့်ကြီး(အေဒီ ၁၈၆၄–၁၉၃၇) *၂နှင့် အကြောင်းပါခဲ့၏။*၃ ဒေါ်ခန့်ကြီးတို့ မိဘများသည် လယ်တီဆရာတော်ကြီးကိုဆည်းကပ်ကိုးကွယ်သူများ

---

*၁ လယ်တီဆရာတော်၏ ပဓာနသုတ်ပါဠိနိဿယ။ သောမနဿပေကွာဒီပနီ။ ၁၉၅၁–ခုနှစ်။ (စာမျက်နှာ–၁၈၄)။

*၂ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၃၀၁)။

*၃ ယင်း။ (စာမျက်နှာ–၂၉၇)။

ဖြစ်၍ ဆရာသဲသည် ဒေါ်ခန့်ကြီးတို့မိသားစုနှင့်အတူ လယ်တီဆရာတော်ကြီးထံပါးသို့ ရောက်ရှိခဲ့ရခြင်းဖြစ်သည်။

ဆရာသဲသည် မန္တလေးမြို့၌နေစဉ်ကပင် သဒ္ဒါသင်္ဂြိုဟ်စသည် သင်ယူဖူးသည်ဖြစ်၍ ဆရာတော်ကြီးထံပါး၌ဝေယျာဝစ္စပြုရင်း အဘိဓမ္မာသင်္ဂြိုဟ်တို့ကို သင်ယူမှတ်သားခဲ့၏။ ဆရာတော်ကြီးက–'ဟဲ့–ငသဲ၊ အခွင့်အခါကောင်းလေးကို ချွတ်ချော်တိမ်းပါး၍မသွားစေရန် ကိုယ့်အကျိုးစီးပွားအစစ်ကို လေ့ကျက်ရှာဖွေ'ဟု ဆုံးမတော်မူသောကြောင့် ဆရာသဲသည် အသက် ၂၅–နှစ်ခန့်အရွယ်တွင် ဇနီးသည်ဒေါ်ခန့်ကြီးနှင့်အတူ ဆရာတော်ကြီးထံပါး၌ဝေယျာဝစ္စပြုစုရင်း အချိန်ကုန်စေခဲ့၏။*၁

ဆရာတော်ကြီး၏တပည့်များတွင် ရဟန်းမဝတ်ပါဘဲနှင့် ပိဋကတ်စာပေ နှံ့စပ်သူမှာ ဆရာသဲဖြစ်သည်။ နောင်အခါ ဆရာသဲကြီးက 'လယ်တီမြတ်ဖျား၊ တပည့်သား၊ လူကားဝတ်ကြောင်သာ'ဟူ၍ မိမိသည် လယ်တီဆရာတော်ကြီး၏ လူဝတ်ကြောင်တပည့်တစ်ဦးဖြစ်ကြောင်းကို သံခိပ်လင်္ကာစပ်ဆိုခဲ့ပေ၏။ ဆရာသဲသည် လူဥပါသကာတို့တွင် ဆရာတော်ကြီးအားအကိုးရဆုံးပုဂ္ဂိုလ်လည်းဖြစ်ခဲ့ပါ၏။*၂ လယ်တီတောရအတွင်း တရားပွဲများပြုလုပ်သောအခါ လယ်တီဆရာတော်ကြီးက မိမိ၏စကြံကျောင်းအတွင်းမှတရားဟောတော်မူပြီး တရားနာပရိသတ်တို့က သစ်ပင်အောက်ကနေ၍ တရားနာယူကြရ၏။ လယ်တီတောရ၌ ဓမ္မာရုံဟုမရှိသေး။ ထိုထိုသောတရားပွဲတို့၌ ဆရာသဲကြီးက တရားထောက်၊ တရားနာခံလုပ်ရလေ့ရှိသည်။ တရားပွဲ၌ ဆရာတော်ကြီးက ဆရာသဲကြီးကို 'ဟဲ့ ငသဲ'ဟုခေါ်လေ့ရှိ၏။*၃

ထို့ပြင် မုံရွာမြို့ ဇရပ်ပိုင်းဆုတောင်းပြည့်ဘုရား*၄ တွင်လည်း လယ်တီဆရာတော်ကြီး၏ တရားပွဲကျင်းပလေ့ရှိ၏။ ထိုသို့ တရားပွဲကျင်းပမည်ရှိလျှင် အရပ်ထဲ၌တင်ကြိုကာ ကြေးစည်ထမ်း၍ လှည့်လည်ကြေညာနှိုးဆော်ပေးခဲ့သူမှာ ဆရာသဲပင်ဖြစ်သည်။

## ပရမတ်ဆရာတို့ကိုဆုံးမတော်မူပုံ

လယ်တီဆရာတော်ကြီးကို ကိုးကွယ်ဆည်းကပ်ကြသူဒကာများတွင် ပရမတ်ဆရာ၊ သင်္ဂြိုဟ်ဆရာများပါရှိ၏။ ထိုသင်္ဂြိုဟ်ဆရာတို့တွင် ကျောင်းဒကာသင်္ဂြိုဟ်ဦးဝိုင်း၊ မုံရွာမြို့ လေ့ကူးအုပ်တရုတ်တန်းရပ်နေ ဆရာကြီးဦးတောက်၊ မုံရွာအနောက်ဘက်ကမ်း ဆားတုံမြို့နေ ဦးရောင်နီ–စသည့်ပုဂ္ဂိုလ်တို့အပါအဝင်ဖြစ်သည်။

---

*၁ ဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ (စာမျက်နှာ–၂၉၈)၌ ဆရာသဲသည် အသက်(၃၀)အရွယ်တွင် လယ်တီဆရာတော်ကြီးထံရောက်ကြောင်းပြ၏။ ဆရာသဲကြီး၏သမီး ဒေါ်တင်တင်က ဆရာသဲကြီး အသက်(၄၀)အရွယ်တွင် လယ်တီဆရာတော်ကြီးထံသို့ရောက်ကြောင်း (၈–၈–၁၉၈၄)နေ့က ပြောပြ၏။ ဆရာသဲကြီး အသက်(၄၀)အရွယ်ဆိုသည်မှာ သက္ကရာဇ် ၁၂၆၃(အေဒီ–၁၉၀၁)ခုနှစ်တွင် လယ်တီဆရာတော်ကြီးသည် အလုံတစ်ဖက်ကမ်း ရွှေတောင်ဦးတောင်၌ သီတင်းသုံးတော်မူစဉ် အတူလိုက်ပါခဲ့ရသည်ကိုရည်ရွယ်၍ ဒေါ်ဒေါ်တင်က ပြောဆိုခြင်းဖြစ်ပါသည်။

*၂ စန်းမြမြ၏ပဌမလယ်တီဆရာတော်ဘုရားကြီး၏စွမ်းဆောင်ချက်သမိုင်း။ ၁၉၇၄–ခုနှစ်။ မန္တလေးဝိဇ္ဇာနှင့်သိပ္ပံတက္ကသိုလ် သမိုင်းဌာန မဟာဝိဇ္ဇာဘွဲ့အတွက် ၁၉၇၄–ခုနှစ်၌တင်သွင်းသောကျမ်းဖြစ်သည်။ လက်နှိပ်စက်မူ။ (စာမျက်နှာ–၁၁၃)။

*၃ ဆရာသဲကြီး၏သမီး ဒေါ်ဒေါ်တင်နှင့် (၈–၈–၁၉၈၄)နေ့ တွေ့ဆုံမေးမြန်းချက်ဖြစ်သည်။

*၄ ယခု မုံရွာမြို့၊ ရှမ်းတောရပ် ဗိုလ်ချုပ်အောင်ဆန်းလမ်းမ၌တည်ရှိ၏။



လယ်တီဆရာတော်ကြီး၏တပည့်ရင်း
သေက္ကျတောင်ဦးတိလောက



လယ်တီဆရာတော်ကြီး၏တပည့်ရင်း
အဘိဓမ္မာဆရာသဲကြီး

လယ်တီတော်ဆရာကြီး တရားဟောတော်မူရာ မုံရွာမြို့လည်ရှိဇေရပ်ဝိုင်းဘုရား

ဆရာကြီးဦးတောက်ကား မုံရွာမြို့ လေ့ကူး၌နေထိုင်ပြီး၊ ဦးရောင်နီက ချင်းတွင်းမြစ်အနောက်ဘက်ကမ်းရှိ ဆားတုံမြို့၌နေသူဖြစ်သည်။ ဦးရောင်နီသည် မုံရွာနှင့်အလှမ်းကွာဝေးရကား ဦးတောက်၏စာရေးအကြောင်းကြားမှုကြောင့် လယ်တီဆရာတော်ကြီးအကြောင်းကို သိရှိပြီး ကြည်ညိုနေခဲ့ဟန်လက္ခဏာရှိ၏။

ထိုအဘိဓမ္မာဆရာကြီးဦးတောက်နှင့် ဦးရောင်နီသည် မြတ်စွာဘုရားလက်ထက်အခါက ရှင်သာရိပုတ္တရာအလောင်းနှင့် ရှင်မဟာမောဂ္ဂလာန်အလောင်းပုဂ္ဂိုလ်တို့ကဲ့သို့ တစ်ဦးက တရားထူးကိုဦးစွာကြားသိရလျှင် တစ်ဦးထံသို့သတင်းပြန်ရမည်ဟု ကတိကဝတ်ထားကာ တရားထူးရှာနေကြပုံလည်းတူနေ၏။ ဦးတောက်တို့ရှာနေသော တရားထူးမှာ လောကမှရှောင်ထွက်ရန် တရားမျိုးမဟုတ်ဘဲ သင်္ဂြိုဟ်နှင့်ဆိုင်သော အဘိဓမ္မာတရားထူးမျိုးသာဖြစ်၏။

ဦးတောက်သည် လယ်တီဆရာတော်ကြီးထံတော်သို့ရောက်ရှိကာ ဆရာတော်ကြီးဟောကြားသော အဘိဓမ္မာတရားများကို နာကြားခွင့်ရရှိခဲ့သည်။ ဦးတောက် မရှင်းလင်းအောင်ရှိနေသော အဘိဓမ္မာပုစ္ဆာတို့ကို လယ်တီဆရာတော်ကြီးက ဖြေရှင်းပေးတော်မူခဲ့ပါသည်။ ပမာအားဖြင့် ရူပဈာန်စိတ်,အရူပဈာန်စိတ်နှင့် လောကုတ္တရာတို့သည် 'သသင်္ခါရိကလော, အသင်္ခါရိကလော၊ သို့မဟုတ် နှစ်ပါးစုံဖြစ်သလော, မဖြစ်သလော'ဟူသောမေးခွန်းမျိုးကို ဖြေဆိုပေးတော်မူခြင်းဖြစ်သည်။[*၁] ဤသို့ လယ်တီဆရာတော်ကြီးထံမှ အဘိဓမ္မာအဖြေလွှာတို့ကိုဖတ်ရှုရသောအခါ လယ်တီဆရာတော်ကြီး၏ဖြေဆိုချက်များတွင် အလွန်ထူးခြားသစ်လွင်သော အယူအဆများ ပါဝင်နေရကာ ဦးတောက်သည် မိမိနှင့်ကတိကဝတ်ထားသူ ဆားတုံရွာနေ မိတ်ဆွေဦးရောင်နီထံသို့ အောက်ပါအကြောင်းကြားစာကို ပေးပို့ခဲ့လေသည်။

မှာကြားလိုက်ပါသည် ကိုရောင်နီ–

'သင်္ဂြိုဟ်နှင့်စပ်သော ပရမတ်သဘောအရာ၌ အများတကာမှတ်သားပြောဆို၍နေကြသည့်အရာထဲက ယခု အထူးသစ်လင်း၍လာသော အဘိဓမ္မာစကားများကို ကြားနာရပါလျှင် အသေအချာမှတ်သား၍ပေးလိုက်ပါ'–ဟု မှာထားသည်ဖြစ်၍ အထူးကြားနာရသောအချက်ကြီးများမှာ အလွန်များပြားပါ၏။

ကိုယ်စိတ်နှစ်ပါး မအားမလပ်ရှိသည်နှင့် ကြားကြားသရွေ့ကို အစေ့အစုံ အကုန်အင ရေးသား၍မပေးလိုက်နိုင်ရှိပါသည်။

ယခုမှာ ဆရာတော်ဘုရားကြီးအဆုံးအဖြတ်ရေးသားပြောဟော၍ လတ်တလော ကြားနာရ, သဘောသကန်အမှန်ကြားနာရသော အထူးတစ်ချက်ကို အထက်စကားရှိကြသည့်အတိုင်း မှတ်နာရေးသား၍ပေးလိုက်ပါသည်။

*၁ လယ်တီဆရာတော်၏ သသင်္ခါရ အသင်္ခါရဝိနိစ္ဆယ။ မဟာသယနဒီပနီကျမ်း။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၃၁ ခုနှစ်။ (စာမျက်နှာ–၁၄၉)။

ရောက်လျှင် တစ်ဦးနှင့်တစ်ဦး နူးနူးနပ်နပ် လေးမြတ်ယုံကြည်ရင်းရှိကြသည့်
အတိုင်း နှလုံးမရှုပ် ဉာဏ်စွမ်းထုတ်၍ ဟုတ်မှန်သလောက် သဘောပေါက်အောင်
အလျောက်အလျှင်မြန် ကြံဖန်အားထုတ်ပါလေ' –ဟုဖြစ်၏။*[၁]

ထိုစာနှင့်အတူ လယ်တီဆရာတော်ကြီးရှင်းလင်းဟောပြောတော်မူအပ်သော သင်္ဂြိုဟ်ကျမ်း၊ ဝိထိပိုင်း၊ တဒါရမ္မဏာနိယမလာ ဘုရား ပစ္စေကဗုဒ္ဓ ရဟန္တာအရှင်မြတ်တို့၌ မြတ်သောဇောစိတ်အကြောင်းအဖြေလွှာကိုလည်း ပူးတွဲပေးပို့ပါသည်။*[၂]

**သင်္ဂြိုဟ်ဆရာများကိုဆုံးမခြင်း**

ရှေးက မြန်မာလူမျိုးတို့၏ပညာရေးမှာ ဘုန်းတော်ကြီးကျောင်းပညာရေးသာဖြစ်၍ သဒ္ဒါ, သင်္ဂြိုဟ်သည် မသင်မနေရသော အထက်တန်းကျမ်းစာမျိုးဖြစ်လေရာ၊ ဘုန်းကြီးကျောင်း နေဖူးသူတိုင်းလိုလို သဒ္ဒါ,သင်္ဂြိုဟ် သင်ခဲ့ဖူး၏။ ထိုပုဂ္ဂိုလ်များသည် အသက်အရွယ်ကြီးရင့်လာသော် တရားစကားပြောဆိုကြရာတွင် ငယ်စဉ်ကသင်ခဲ့ရသော သဒ္ဒါ,သင်္ဂြိုဟ်စသည်တို့ကို တရားစကားလုပ်၍ပြောဆိုကြရ၏။ အထူးသဖြင့် အဘိဓမ္မာဆိုင်ရာသင်္ဂြိုဟ်ကျမ်းလာစကားများသည် သုမင်္ဂလ, ဒုမင်္ဂလရှိရာ အိမ်ဦးအိမ်ခန်းတွင် ပြောဆို၍အကောင်းဆုံးသော တရားမျိုးဖြစ်၏။

အချို့က ရိုးရိုးသားသား တရားစကားကို ပြေပြေပြစ်ပြစ် ဆွေးနွေးကြသလို၊ အချို့မူကား အိမ်ဦးခန်းမှာ အလှူရှင်ကျွေးသောလက်ဖက်အကြော်စုံကို ဗိုက်ကားအောင်စားပြီး အများအထင်ကြီးရလေအောင် ပါဠိအတိုအစတို့ကို ရွတ်လိုက်ဖတ်လိုက်ဖြင့် ဟန်ထုတ်ဂိုက်ထုတ်ကြသော အဘိဓမ္မာဆရာ, ပရမတ်ဆရာ, သင်္ဂြိုဟ်ဆရာမျိုးလည်း ရှိသေး၏။ ထိုသို့ဟိတ်တလုံးဟန်တလုံးဖြင့် ဘုရားစကားကိုအသုံးချကာ အချောင်စားသောက်နေသော ပရမတ်သမားမျိုးကို စလေဆရာကြီးဦးပုညက 'ဘုရားမကြိုက်သောလူတစ်စု' ဟုကင်ပွန်းတပ်ခဲ့ပြီး၊ ထိုလူစု၏ 'သောမနဿသဟဂုတ်၊ လက်ဖက်ကသုံးလေးလုတ်၊ ဒိဋ္ဌိဂတသမ္ပယုတ်၊ ကြက်သွန်ကြော်များများနှင့် ဗိုက်ကားအောင်တုတ်' ခဲ့ပုံတို့ကို ကလိယုဂ်စာတမ်းတွင် စာဖွဲ့ခဲ့ပါသည်။*[၃]

ဦးတောက်၊ ဦးရောင်နီစသော ပရမတ်ဆရာ, အဘိဓမ္မာဆရာတို့မှာ ဦးပုညဖွဲ့ဆိုသော ဘုရားမကြိုက်သည့်လူစု၌ပါဝင်သည့် ပရမတ်ဆရာမျိုးမဟုတ်လင့်ကစား၊ အဘိဓမ္မာဆရာ သင်္ဂြိုဟ်ဆရာတို့ထုံးနည်းအတိုင်း လူစုံလျှင် ပိဋကတ်အစွယ်ထောင်ပြချင်ကြ၏။ 'အဘိဓမ္မာတတ်လျှင်ပျော့' ဟူသောဆိုရိုးအတိုင်း အဘိဓမ္မာတတ်လာလျှင် စိတ်ထားပျော့ပျောင်းနူးညံ့လာရမည့်အစား တတ်သမျှသောပညာမာန်ကလေးဖြင့် နှုတ်တစာစာတဖွာဖွာနှင့် ပိဋကတ်အစွယ်ထောင်ချင်ကြ၏။ ငြင်းခုံစရာရှိလျှင် မပြောပ,လောက်သောအကြောင်းအရာကလေးနှင့် ငြင်းခုံတတ်ကြ၏။ သူတစ်ဖက်သားကို နှိမ့်၍ပြောချင်တတ်၏။ ကိုယ့်ကိုယ်ကို မြှောက်၍လည်းပြောလိုကြ၏။

---

*[၁] လယ်တီဆရာတော်၏ သာသနဝိသောဓနီ၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၁၆၁)။

*[၂] ထိုအဖြေလွှာကို လယ်တီဆရာတော်၏ သာသနဝိသောဓနီ၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၁၆၂)၌ရှုပါ။

*[၃] ဦးလွင်၏ ကဗျာသင်္ဂဟမေဒနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၆–ခုနှစ်။ (စာမျက်နှာ–၁၀၇)။

ဤသို့ ပရမတ်ဆရာများ၏ အဘိဓမ္မာပိဋကဌ် ပြည့်ပြည့်စုံစုံမဟုတ်ဘဲ ဟိုတစ်စသည်တစ်စ တစ်ပိုင်းကြောင်တတ်ကာမျှအဖြစ်တို့ကိုရည်ရွယ်၍ လယ်တီဆရာတော်ကြီးက အဘိဓမ္မာ ဦးရောင်နီထံသို့ပေးပို့သော ဆုံးမစာတေးထပ်တစ်ပိုဒ်မှာ အောက်ပါအတိုင်းဖြစ်၏။

တပိုင်းကြောင် ကျက်စာရရုံနှင့်၊
ခက်ပါလှသဘောဉာဏ်။
ထက်မာန အပြောသန်တယ်၊ ဒေါသမာန်ထူပွား။
စောဒက တုဘက်လာလျှင်၊ သူ့ထက်ငါ ငြင်းတဲ့လူစား။
ဘုရားဟော မြတ်ဓမ္မကွန်ကို၊ တတ်လေဟန်ယောင်ဝါး။
ပရမတ်ပြန် အကြောင်းသမားတွေတို့၊
ထောင်လွှားကြ သူ့ထက်ငါ။
အသိဉာဏ် တထွာလောက်ကယ်နှင့်၊
ညှာမထောက် ဟောတတ်လှပါ။
ပရိသတ် ထောမနာအောင်၊
စောဒနာ ဉာဏ်အကောက်တွေနှင့်၊
ကန်အကြောက် အတင်းမရှောင် ငြင်းကြလူ့ဘောင်။
ပိဋကတ် အစွယ်ထောင်လျှင်၊
အပါယ်ဘောင် ဆင်းရလိမ့်လေး။ ။*၁

ထို့ပြင် အဘိဓမ္မာတရားတော်နှင့်စပ်၍ အထူးထူးအထွေထွေ ကြံစည်၍ပြောဟောငြင်းခုံလေ့ ရှိသော အဘိဓမ္မာဆရာကြီးတို့အားလည်း မိမိတတ်သမျှသိသမျှ သဘောဉာဏ်ကလေးဖြင့် လိုရာဆွဲ၍ မဟောမပြောကြပါလေနှင့်။ သူတစ်ပါးတို့၏စိတ်၌ တွေဝေသွားစေရန်၊ အမှန်ကို အမှားဖြစ်သွားစေရန် ပြောဆိုဟောပြောမိသောကြောင့် ပညာရှိတို့၏စိတ်နှလုံးကို တုန်လှုပ်စေတတ် သော ဝိတဏ္ဍဝါဒီအဖြစ်သို့ ရောက်ရှိသွားတတ်ပါသည်။ ဗုဒ္ဓုပ္ပါဒနဝမအခါကောင်းနှင့် ဆုံဆည်း မိကြပါသော်လည်း မိစ္ဆာဉာဏ်အယူမှားမှုကြောင့် ယခုဘဝ၌သာမက ဘဝတသွန် တမလွန်အထိပါ အကျိုးမဲ့ဖြစ်ကြလေရာ၏။ သို့ဖြစ်၍ သဗ္ဗညုတဉာဏ်တော်အရာဖြစ်သော အဘိဓမ္မာတရားတော် ကို မိမိတို့၏သဘောဉာဏ်ကလေးမျှနှင့် ဆင်ကန်းတောတိုး ထင်ရာထင်ရာမဟောမပြော သင့်ကြောင်း ရေးသားဆုံးမထားသော လယ်တီဆရာတော်ကြီး၏ ကေပိုဒ်လင်္ကာတစ်ပုဒ်မှာ အောက်ပါအတိုင်းဖြစ်သည်။

'ဆိုပိမ့်ဟုတ်ရာ၊ စေ့စေ့နာလော့။ သဒ္ဒါ၊ ပရမတ်၊ မနူးနပ်ဘဲ၊ လူတတ်တဆူ၊ ငါကောဟူ၍၊ အယူထွေဆန်း၊ မရဲလွန်းနှင့်။ ကျမ်းတဲ့ဂန်တဲ့၊ မရွဲ့စသာ၊ လေးမြတ် ပါမှ၊ ပညာတိုးပွား၊ အကျိုးများလိမ့်။ လေးပါးပင်လယ်၊ နက်ဝှမ်းကျယ်ကို၊ ယုန်ငယ်

*၁ လယ်တီဆရာတော်၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၁၂၁)။

သေးကွေး၊ မလောက်လေးမူ၊ သေဘေးမနှောင်း၊ မြဲစတောင်းတည့်။ ခါကောင်းသမယ၊ နဝမတဲ့၊ ဘဝအခိုက်၊ မကြိုက်စ,သာ၊ ကြိုက်ခဲ့ပါလည်း၊ သမ္မာမဝင်၊ မိစ္ဆာယှဉ်က၊ လူတွင်လုံးလုံး၊ အဖြစ်ရှုံး၏။ ထုံးဟောင်းတန္တီ၊ ကျမ်းအညီနှင့်၊ ဂမ္ဘီရဓာတ်၊ ပရမတ်ကို၊ အတတ်တွေးတော၊ မဟောပြောနှင့်။ သဘောသကန်၊ မိမိဉာဏ်နှင့်၊ မစာန်မရာ၊ နက်နဲစွာကို၊ အရာမသိ၊ မရိပ်မိဘဲ၊ ဟုတ်လိနိုးနိုး၊ ဆင်ကန်းတိုးသို့၊ ကြိုးကြိုးပမ်းပမ်း၊ အကြံဆန်းမူ၊ ပရမ်းပတာ၊ စိတ်သညာဖြင့်၊ ထင်ရာထင်မိ၊ မှားခေါင်ထိ၍၊ ဒိဋ္ဌိဒိမြစ်၊ စုန်းစုန်းနစ်သည်–လူဖြစ်ဤတွင် ဆုံးသတည်း'*[၁]–ဟူ၍ ဖြစ်သည်။

ကျီကုန်းရွာမှကုက္ကုစ္စပြဿနာ

ရှေးအခါက အထက်အောက်နိုင်ငံအနှံ့ စူဠဂဏ္ဍိ–မဟာဂဏ္ဍိ၊ ကံ–ဒွါရ စသည် ဘာသာရေးဆိုင်ရာအယူအဆများကွဲပြားကြရာ သူမှန်သည်,ငါမှန်သည်ဟု အငြင်းအခုံဖြစ်ကြလျက် အိမ်ခြေငါးရာရှိသောရွာကြီးသည်ပင် နှစ်ခြမ်းကွဲပြီး တစ်ရွာမှ နှစ်ရွာဖြစ်ခဲ့ရဖူးလေသည်။

မုံရွာမြို့၊ ချောင်းဦးမြို့တို့တွင်လည်း ကုက္ကုစ္စ–ဟူသော စေတသိက်သဘောကိုငြင်းခုံကြရာ ဆရာနှင့်ဒကာ,သားနှင့်အဖ တစ်ဖက်တစ်လမ်း ခိုက်ရန်ဖြစ်မတတ် ငြင်းခုံပွဲကြီးများဖြစ်ခဲ့ကြသည်။ သက္ကရာဇ် ၁၂၅၃(အေဒီ–၁၈၉၁)ခုနှစ်သို့ရောက်သည့်တိုင် ထိုကုက္ကုစ္စငြင်းခုံမှုပြဿနာသည် မငြိမ်းမစဲသေးဘဲ တငွေ့ငွေ့လောင်မြိုက်နေဆဲ ငြင်းခုံနေကြမြဲဖြစ်ရာ ကျီကုန်းရွာ*[၂] ကလေးသည်လည်း ထိုအငြင်းပွားသောရွာတို့တွင် တစ်ရွာအပါအဝင်ဖြစ်လေသည်။*[၃]

ကျီကုန်းရွာသို့ လယ်တီဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၅၃–ခုနှစ်ကုန်ခါနီးအချိန် (အေဒီ ၁၈၉၁–ခုနှစ်၊ ဧပြီလ)တွင် နှစ်ကြိမ်ကြွတော်မူခဲ့ရာ ထိုရွာနေ ဒကာငအောင်က ဆရာတော်ကြီးကြွလာတိုင်း ကြောင်ထမင်းတောင်းသကဲ့သို့ မနေကောင်းမထိုင်သာအပူရှာ၍ ရပ်ရွာအတွင်း အငြင်းပွားနေသော ကုက္ကုစ္စပြဿနာအဖြေလွှာကိုတောင်းခံလေ့ရှိသောကြောင့် နောက်တစ်ခါ ထိုကျီကုန်းရွာသို့ရောက်ရပါမူ ကုက္ကုစ္စပြဿနာအဖြေလွှာဝိနိစ္ဆယကိုအတောင်းမခံရလေအောင် ပါဠိ,အဋ္ဌကထာစသည်တို့မှ သေချာစွာထုတ်ဆောင်ပြရှင်းလင်းထားသော ကုက္ကုစ္စဝိနိစ္ဆယ တစ်စောင်ကို လယ်တီဆရာတော်ကြီးသည် မုံရွာမြို့ မဟာလယ်တီတောရတိုက်မှာပင် ရေးသား၍ ယူဆောင်လာခဲ့ပြီး ဒကာငအောင်ကို ပေးအပ်တော်မူခဲ့ပါသည်။*[၄]

---

*[၁] လယ်တီဆရာတော်၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၁၂၂)။

*[၂] ကျီကုန်းရွာသည် စစ်ကိုင်းတိုင်း၊ မုံရွာခရိုင်၊ ချောင်းဦးမြို့နယ်တွင် ပါဝင်ပါသည်။

*[၃] လယ်တီဆရာတော်၏ သာသနဝိသောဓနီကျမ်း၊ ဒုတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၁၅၂)။

*[၄] လယ်တီဆရာတော်ကြီးဖြေဆိုသော ကုက္ကုစ္စဝိနိစ္ဆယကို သာသနဝိသောဓနီကျမ်း၊ ဒုတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ ၁၅၃–၁၆၆)တွင်ရှုပါ။

လယ်တီဆရာတော်ကြီး ဖြေရှင်းရေးသားသော ကုက္ကုစ္စဝိနိစ္ဆယစာကို ဖတ်ရှုကြရသူ အပေါင်းမှာ ကုက္ကုစ္စတည်းဟူသော စေတသိက်၏သဘောကို ကျနစွာသိကြရပြီး၊ ဘာမျှ အငြင်းမပွားလိုတော့ဘဲ သံသယရှင်း သင်္ကာကင်းကြကာ တစ်ဦးနှင့်တစ်ဦး တစ်ရပ်နှင့်တစ်ရပ် ရှေးယခင်ကကဲ့သို့ ရင်းရင်းနှီးနှီးခင်ခင်မင်မင် ဆက်ဆံမြဲ ဆက်ဆံခဲ့ကြလေသည်။

## ဆုတောင်းပြည့်ဘုရားကျောက်စာပြဿနာအစ

သက္ကရာဇ်-၁၂၅၄(အေဒီ-၁၈၉၂)ခုနှစ်၌ မုံရွာမြို့လယ် ဆုတောင်းပြည့်မြတ်စွာဘုရားကြီး ပြိုရာ ဘုရားကြီးကိုအများစုပေါင်းပြုပြင်၍ ပြီးစီးအောင်မြင်ခဲ့ပြီဖြစ်ပါသဖြင့် မော်ကွန်းတင် ကျောက်စာတစ်ချပ်ကိုပင်ရေးထွင်းပြီး ဘုရားရင်ပြင်ပေါ်တွင် အုတ်ဂူတိုက်အတွင်းထားရှိခဲ့ကြ သည်။[*၁] ထိုကျောက်စာတွင်-

ခေတ္တသုဒ္ဓိဒိ မာပကော၊ ထေရော ပိဋကပါရဂူ။
ဓာတုနိဓာနံ မာပေသိ၊ ပတ္တနိယမှိ စေတိယေ-

ဟူသော ဂါထာတစ်ပုဒ်ပါရှိသည်။[*၂] ယင်းဂါထာ၏မြန်မာဘာသာနိဿယမှာ-

ခေတ္တသုဒ္ဓိဒိ မာပကော-ရတနာသုံးတန် ခေတ်ကောင်းမှန်၍ ပြုရန်ဖော်သာ လွတ်သည်သာသို့ ထင်ရှားစင်ခြင်ခြင်းစသည်တို့ကို မြတ်နိုးတော်မူသော၊ ပိဋက ပါရဂူ-ပိဋကတ်သုံးပုံအလုံးစုံကို ထုံးလိုချေရေလိုနှောက် တစ်ဖက်ကမ်းရောက်တော် မူသော၊ ထေရော-သီလ, သမာဓိ, ပညာကို ထင်စွာခိုင်ဖြိုး ကျေးဇူးရှင်လယ်တီ ဆရာတော်ဘုရားကြီးသည်၊ ဓာတုနိဓာနံ-သရီရဓာတ် မွေတော်မြတ်ကို၊ ပတ္တနိယမှိ- လိုရာဆုမြတ် တောင့်တအပ်သော(ဝါ)တောင်းလျှင်ပြည့်၍ ဆုတောင်းပြည့် အမည်ရှိသော၊ စေတိယေ-စေတီတော်မြတ်ကြီး၌၊ မာပေသိ-စိတ်အားသဒ္ဒါ ထက်သန်စွာဖြင့် ပြုပြင်တော်မူရှာပေပြီတကား'-ဟူ၍ဖြစ်ပါသည်။

ထိုဆုတောင်းပြည့်ကျောက်စာ၌ လယ်တီဆရာတော်ကြီးကို 'ပိဋကတ္တယပါရဂူ-ပိဋကတ် သုံးပုံအလုံးစုံကို ထုံးလိုချေရေလိုနှောက် တစ်ဖက်ကမ်းရောက်တော်မူသော'ဟု ရေးဖွဲ့ထားသည့် အတွက် ထိုအခါက အချို့သောသံဃာပရိသတ်တို့ မကျေမနပ်ဖြစ်ခဲ့ကြောင်း အမှတ်အသား

---

*၁ မုံရွာမြို့ ဆုတောင်းပြည့်မြတ်စွာဘုရားသမိုင်းကျောက်စာ။ (ကြောင်းရေ-၄၆)။ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီ မဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၁၇၈)တွင် 'သက္ကရာဇ် ၁၂၅၄(အေဒီ-၁၈၉၂)ခုနှစ်၌ ဆုတောင်းပြည့်ဘုရားပြိုကျ ပျက်စီးသည်' ဟုဖော်ပြထား၏။ ဓမ္မာစရိယဦးဌေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ။ ၁၉၈၉-ခုနှစ်။ (စာမျက်နှာ-၃၀၃)၌ 'သက္ကရာဇ်-၁၂၅၄ (အေဒီ-၁၈၉၂)ခုနှစ်တွင် ဆုတောင်းပြည့်စေတီတော်ပြိုကွဲပျက်စီး၍ သက္ကရာဇ်-၁၂၅၉(အေဒီ- ၁၈၉၇)ခုနှစ်တွင် ပြုပြင်၍ပြီးစီးသည်'ဟု ဖော်ပြထား၏။ စင်စစ် သက္ကရာဇ်-၁၂၅၉ (အေဒီ-၁၈၉၇)ခုနှစ်မှာ ဆုတောင်းပြည့် ဘုရားကြီး ထီးတော်တင်သောနှစ်သာဖြစ်ပါသည်။

*၂ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၁၇၈)။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင် ကျော်များ။ (စာမျက်နှာ-၁၀၇)။

ရှိလေသည်။ သိမီလိုက်သူတို့၏ပြောပြချက်အရ ထိုပိဋကတ္တယပါရဂူပြဿနာဖြစ်ပွားပုံမှာ ဤသို့ဖြစ်ပါသည်။

ဆုတောင်းပြည့်ဘုရားကျောက်စာပါ 'ထေရောပိဋကတ္တယပါရဂူ'ဟူသော စကားကို မုံရွာမြို့ ထိပ်သီးဆရာတော်ဦးပုလဲ၊ ဦးဥတ္တမတို့ခေါင်းဆောင်သော အတိုက်အခံ အချို့သံဃာတော်များဘက်ကမခံမရပ်နိုင်ကြ၍ ထိုကျောက်စာကိုရိုက်ချိုးဖျက်ဆီးပြီး သလ္လာဝတီမြစ်ရေအတွင်း မျှောကြမည်ဟု အသံထွက်လာ၏။ လယ်တီဆရာတော်ဘက်ကလည်း 'ပိဋကတ္တယပါရဂူ'–ဟုရေးခြင်းသည် ပိဋကတ်သုံးပုံအလုံးစုံကိုအကုန်တတ်မြောက် တစ်ဖက်ကမ်းရောက်၍သာ ရေးခြင်းဖြစ်သည်၊ ဘာအပြစ်ရှိသလဲ?။ ပိဋကတ်နှင့်စပ်ဆိုင်ရာမေးမြန်းချင်တာ မေးကြ၊ မေးမြန်းလို့မဖြေနိုင်မှ 'ပိဋကတ်ပါရဂူကျောက်စာ'ကို ဖျက်နိုင်သည်၊ 'ပိဋကတ်ပါရဂူ'ဆိုသောအမည်သည် သူဆိုင်သူပိုင်, ငါဆိုင်ငါပိုင် ရုံးတော်တွင်ရေစစ္စတြီပြုလုပ်၍ ချုပ်ချယ်ထားခြင်းလည်းမရှိ၊ မည်သည့်ပိဋကတ်ပါရဂူပုဂ္ဂိုလ်မဆို လွတ်လပ်စွာရေးနိုင်,သုံးနိုင်သဖြင့် တစ်စုံတစ်ရာအရေးယူစရာမရှိ–ဟူသောအသံများထွက်ပေါ်လာ၏။

ထိုအခါ 'လယ်တီတောရဘုန်းကြီးသည် မိမိကိုယ်ကို ပိဋကတ်သုံးပုံ ကမ်းတစ်ဖက်ရောက် တတ်မြောက်ကြောင်း ဝန်ခံထားသည်။ ၎င်းဝန်ခံချက်အတိုင်း ဟုတ်,မဟုတ်၊ မှန်,မမှန် သိရအောင် ငါတို့သံဃာတော်များက ပိဋကတ်တော်၌ လျှို့ဝှက်နက်နဲခက်ခဲသော (တစ်နည်း) ဂမ္ဘီရဉာဏ်ရှုရထက်မြင်သန်သောပုဂ္ဂိုလ်တို့မှသာ ဖြေဆိုစွမ်းနိုင်မည့် ပိဋကတ်ပုစ္ဆာများကို မေးမြန်းကြမည်။ ပြေလည်အောင်မဖြေစွမ်းနိုင်ပါက ပိဋကတ်ပါရဂူကျောက်စာကိုရိုက်ချိုးဖျက်ဆီးပြီး သလ္လာဝတီမြစ်တွင်မျှောကြမည်'ဟူ၍လည်း အသံထွက်လာကြပြန်၏။

ဤကဲ့သို့ နှစ်ဖက်အချေအတင် စကားအစွန်းအစထွက်ပေါ်လျက်ရှိနေစဉ် တစ်နေ့သ၌ ကျောင်းဒါယကာကြီးဦးကြယ်က မိမိတိုက်အိမ်သို့ မြို့သံဃာတော်များနှင့် လယ်တီတောရသံဃာများအားပင့်ဖိတ်၍ ဆွမ်းလုပ်ကျွေးရာ ကြွရောက်လာကြသော သံဃာပရိသတ်မှာ ရှစ်ကျိပ်ခန့်ရှိလေသည်။ ဤဆွမ်းကျွေးပွဲသည် လယ်တီတောရဆရာတော်အား ပိဋကတ်ပုစ္ဆာထုတ်ဆင်၍ စာမေးပွဲသဘင်ဆင်ယင်အံ့ကဲ့သို့ ဖြစ်၍နေ၏။*၁

ဆွမ်းကိစ္စပြီးစီးသောအခါ သံဃာရှစ်ကျိပ်တို့၏အလယ်ဗဟိုတွင် ကြောက်ရွံ့ခြင်းကင်း ခြင်္သေ့မင်းကဲ့သို့ ဗျတ္တိဗလ,သတ္တိဗလ,ရဲမာန်တံခွန်အောင်လံထောင်၍ လယ်တီတောရဆရာတော်ကြီးထိုင်နေတော်မူပါသည်။ ထိုစဉ် သက်တော်ဝါတော်ကြီး မဟာထေရ်ကြီးတစ်ပါး လယ်တီတောရဆရာတော်၏ရှေ့သို့ရောက်သည်အထိ ဆွမ်းကျွေးပွဲအတွင်းကြွလာတော်မူပြီး မတ်ရပ်ကြွရိယာပုတ်ဖြင့်ပင် လယ်တီတောရဆရာတော်အား လက်ညှိုးညွှန်လျက် 'ဟေ့–သံဃာ့အလယ်ဗဟိုက

---

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၁၀)။ မြန်မာစရိယဦးဌေးလှိုင်ကမူ– '၁၂၅၉–ခုနှစ်၊ ကဆုန်လပြည့်ကျော် ၅–ရက် (အေဒီ –၂၀၊ မေလ၊ ၁၈၉၇)ခုနှစ် မဏ္ဍပ်ကြီးဆောက်လုပ်၍ ထိုပိဋကတ္တယပါရဂူပြဿနာကို လယ်တီဆရာတော်နှင့် တစ်ဖက်မှပုဂ္ဂိုလ်တို့ ကြွရောက်ရင်ဆိုင်ကြသည်'ဟု ဖော်ပြထား၏။ မြန်မာစရိယဦးဌေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၃၀၄)။

ကြောက်ရွံ့ခြင်းကင်း ရဲတင်းသောသတ္တိ, ခိုင်လုံသောဗျတ္တိ, တည်ကြည်သောသမာဓိဖြင့် တည့်မတ်စွာထိုင်လျက်နေတာ ဘယ်သူလဲကွယ့်'ဟုမိန့်တော်မူလိုက်သည်။ ထိုအခါ လယ်တီဆရာတော်သည် သက်တော်ကြီးဝါတော်ကြီး ဆရာတော်မဟာထေရ်မြတ်ကြီး၏ သီလဂုဏ်, သမာဓိဂုဏ်,ပညာဂုဏ်များကို လေးစားယုံကြည်သောအားဖြင့် မူလဣရိယာပုတ်ကိုပြုပြင်၍ လက်အုပ်ချီတော်မူလိုက်လေ၏။

ထိုအခါ သက်တော်ကြီးဝါတော်ကြီး မဟာထေရ်မြတ်ကြီးက သံဃာ့ပရိသတ်ဘက်သို့ လှည့်၍ မိန့်ဆိုတော်မူသည်မှာ 'ကိုင်း-ကိုယ်တော်တို့၊ သံဃာ့အလယ်ဗဟိုက မားမားမတ်မတ် ထိုင်လျက် ရဲမာန်တံခွန်အောင်လံကြီးသည် ယခုအခါ ပြိုလဲသွားပြီ။ ပိဋကတ်ပုစ္ဆာထုတ်ဆင့်၍ မေးမြန်းကြမည့်ပုဂ္ဂိုလ်တွေကလဲ ကိုယ့်ကျောင်းကိုယ်ပြန်ကြပြီး ပရိယတ္တိ,ပဋိပတ္တိဟူသော ရဟန်းကိစ္စများကို သင်အံကြိုးကုတ်အားထုတ်ဆောင်ရွက်တော်မူကြပါ။ ပိဋကတ္တယပါရဂူပုဂ္ဂိုလ်ကလဲ ပိဋကတ်တော်ကို ကမ်းတစ်ဖက်ရောက်တတ်မြောက်သည့်အတိုင်း မိမိ၏တပည့်လက်သားတို့အား တတ်မြောက်အောင် သင်ကြားပို့ချပေးပါ'ဟု မိန့်မြွက်တော်မူသောကြောင့် နှစ်ဖက်အချေအတင် ဖြစ်ကြမည့်အဓိကရုဏ်းကြီးမှာ ငြိမ်းစဲတော်မူခဲ့ရပါသည်။*၁

အချို့သောမှတ်တမ်းများ၌ ဤသို့ တစ်ဖက်နှင့်တစ်ဖက်ပြဿနာဖြစ်ခိုက်တွင် မကျေမနပ်ရှိကြသူများက ပိဋကတ္တယပါရဂူဟုရေးထိုးထားသော ဆုတောင်းပြည့်ဘုရားကျောက်စာကို တစ်ညတွင် အပိုင်းပိုင်းရိုက်ချိုးဖျက်ဆီးလိုက်ကြသည်ဟုလည်း ဖော်ပြ၏။*၂ မုံရွာမြို့ ဆုတောင်းပြည့်ဘုရားသမိုင်းကျောက်စာတွင်မူ ထိုကျောက်စာကို နောင်သောအခါ၌ ဆုတောင်းပြည့်ဘုရားအတွင်း ဌာပနာထားခဲ့သည်ဟုလည်း ရေးထိုးဖော်ပြထားပါသည်။ ထိုဆုတောင်းပြည့်ဘုရားသမိုင်းကျောက်စာမှာပင် ထိုစဉ်က လယ်တီဆရာတော်ကြီးကိုအတိုက်အခံပြုခဲ့သူများတွင် ဘုန်းတော်ကြီး ဦးပုလဲ၊*၃ ဦးဥတ္တမ၊*၄ ဦးရွှေလုံး*၅ စသော လူဒကာတို့ပါဝင်ကြကြောင်းဖော်ပြထား၏။

အချို့ကမူ အတိုက်အခံပုဂ္ဂိုလ်များသည် လယ်တီဆရာတော်ဘုရားကြီးကို ပိဋကတ္တယပါရဂူပြဿနာတွင် မတွန်းလှန်နိုင်ကြသဖြင့် တစ်ခုသောညနေစောင်း နေဝင်ဖျိုးဖျအချိန်တွင်

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၁၈၀)။ ဤအချက်တို့ကို မုံရွာမြို့ အငြိမ်းစား အရေးပိုင်ဦးဘတင် လျှောက်ထားသည့်အတိုင်း ထည့်သွင်းဖော်ပြကြောင်း- ဆရာကြီးဦးလှတင်(ဦးဝဏ္ဏိတ)က လယ်တီမဟာထေရုပ္ပတ္တိကထာကျမ်း၌ ထုတ်ဖော်ရေးသားထားပါသည်။

*၂ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ-၁၀၉)။ ဆရာကြီးလယ်တီဦးလှတင်(ဦးဝဏ္ဏိတ)ကမူ 'ထိုကျောက်စာတိုင် မည်သည့်အခါမှုရိုက်မချိုးခဲ့ပါ'ဟု (၁၆-၃-၁၉၇၉)နေ့က ပြောပြပါသည်။

*၃ ဦးပုလဲသည် သာဓုတိုက်မှ ဆရာတော်တစ်ပါးဖြစ်ပါသည်။ သာဓုတိုက်သည် မုံရွာမြို့၊ ဘုရားကြီးရပ်၊ ရုပ်စုံကျောင်းလမ်း၌ တည်ရှိသည်။

*၄ ဦးဥတ္တမသည် ခတက်ကုန်းတောင်ရွာဇာတိဖြစ်ပြီး လှေလောင်းဝါသနာအလွန်ကြီး၍ လှေလောင်းဘုန်းကြီးဟုခေါ်၏။ အချို့က ဝက်တစ်ပိဿာကုန်အောင်ဘုဉ်းပေးနိုင်၍ ဝက်သားဘုန်းကြီးဟုလည်းခေါ်ကြ၏။ ထိုဦးဥတ္တမသည် ယခု မုံရွာမြို့လယ်ရှိ သုဓမ္မာစာရီဇိမာန်တော်ကြီးနေရာ၌ ဓမ္မိကာရာမရူပါရုံကျောင်းအမည်ဖြင့် ကျောင်းတိုက်တည်ခဲ့၏။ ဥက္ကံမင်း(မဏ္ဍိုင်)၏ ကလေးဝအဘိုးဆရာတော်။ (စာမျက်နှာ-၁၃၉)။

*၅ အချို့မှတ်တမ်း၌ 'ဦးရွှေဂုံး၊ ညောင်တပင်'ဟုဖော်ပြ၏။



ဒုတိယဖောင်းချမ်းပင်ဆရာတော်
ဦးဖြဟ္မသိရီ



လယ်တီဆရာတော်နှင့်ဖောင်းချမ်းပင်ဆရာတော်တို့
တွေ့ဆုံရာ ဘုရားလှစေတီ



မုံရွာမြို့ လယ်တီတောရအတွင်းရှိ မဟာဗောဓိပင်



မုံရွာမြို့ဆုတောင်းပြည့်ဘုရားသမိုင်း
ကျောက်စာ

လယ်တီတောရကျောင်းသို့ ဒါယိကာမတစ်ဦးစေလွှတ်ပြီး အနှောင့်အယှက်ပေးသော်လည်း မအောင်မြင်–စသည်ဖြင့်ပြောဆိုကြပါသည်။*၁

မုံရွာမြို့၌ သံဃဝေယျာဝစ္စကိုဆောင်ရွက်ကာ စာချအလွန်ကောင်းသည်၊ အကျင့်သီလ ကောင်းသည်၊ ကျောင်းပိမည်စိုး၍ ကျောင်းကိုစွန့်ကာ တောရဆောက်တည်ခဲ့သဖြင့် အလို နည်းပါးလှပေသည်–စသည်ဖြင့် လယ်တီဆရာတော်ကြီး၏သီလဂုဏ်စသောဂုဏ်တို့နှင့်စပ်သော ပသံသချီးကျူးသံများလျှံထွက်လာချိန်တွင် နိန္ဒာဟူသောအပြစ်ရှာကဲ့ရဲ့ရှုတ်ချသောအသံ၊ ဖျက် လိုသောအသံ၊ ကိုယ့်ထက်သာမနာလိုသောအသံတို့ကလည်း တစ်ပြိုင်တည်းထွက်ပေါ်လာခဲ့ လေသည်မှာ ဓမ္မတာပင်။ လယ်တီဆရာတော်အဖို့မှာ– နတ္ထိ လောကေ အနိန္ဒိတော–ဟု လောကမှာ ကဲ့ရဲ့လွတ်သူတစ်ဦးတလေမျှမရှိ။ ဘုရားရဟန္တာ ပစ္စေကဗုဒ္ဓါတို့ပင်ကြုံဆုံရသော တရားပေပဲဟုနှလုံးသွင်းကာ မိမိဆောင်ရွက်ရမည့်သာသနာရေးလုပ်ငန်းများကိုသာ ရည်ရွယ်ရင်း မပျက် ဆောင်ရွက်နေတော်မူခဲ့ပါသည်။

ဤအဖြစ်အပျက်တို့ကြောင့် လယ်တီဆရာတော်ကြီးသည် နောင်အခါဝယ် မုံရွာမြို့ပေါ်ရှိ ဂိုဏ်းထောက်ဂိုဏ်းအုပ်စသောပုဂ္ဂိုလ်တို့၏ အဆင့်အဆိုမခံရဘဲ သီးခြားကင်းလွတ် (တစ်နည်း) ဂဏဝိမုတ်ရသကဲ့သို့ မိမိတောရ၌သာ အေးချမ်းစွာနေခွင့်ရခဲ့သည်ဟူ၍လည်းအဆိုရှိပါသည်။*၂ စင်စစ် လယ်တီတောရဆရာတော်သည် ဤအဖြစ်အပျက်များကြောင့် မုံရွာမြို့၌ သာသနာပြုကာ နေလိုသောစိတ်လျော့ပါးသွားပြီး အခြားဒေသများသို့ အထူးအားဖြင့် လူသူကင်းဆိတ်ရာ တော တောင်အရပ်သို့ လှည့်လည်သွားလာလိုသည့်စိတ်ဆန္ဒများ တစ်စတစ်စဖြစ်ပေါ်လာခဲ့လေသည်။

## မုံရွာမြို့၌ မြွေပွေးလေးကောင်

ထိုခေတ်ထိုအခါက မုံရွာမြို့သံဃာလောကတွင် ထိတ်ထိတ်ကြဲနေလာသော အရှင်မြတ် များရှိကြရာ၌ ဆုတောင်းပြည့်ဘုရားကျောက်စာတွင်ဦးဆောင်သော သာဖံဆရာတော်ဦးပုလဲ*၃ ဆိုလျှင် မုံရွာမြို့၏မြွေပွေးကြီးဟုပင် တင်စားခေါ်ဆိုခဲ့ကြသည်။ မြွေပွေးဆိုသည့်အတိုင်း အထိမခံတတ်ဟုဆိုလိုသည်။ ဘုန်းတန်ခိုးကြီးသည်။ ဩဇာတိက္ကမကြီးသည်။ အသိုင်းအဝန်း ကောင်းခြင်းတို့ကိုဆိုလိုသည်။

သာဖံဆရာတော်ဦးပုလဲသာမက လေ့ကူးရပ် (ယခု–ညောင်တပင်လမ်း)ရှိ မင်းခင်းတိုက်*၄ တွင်သီတင်းသုံးတော်မူသော ဒုတိယမင်းခင်းဆရာတော်အရှင်စာရိန္ဒသည်လည်း မုံရွာမြို့၏ မြွေပွေးကြီးတစ်ကောင်အဖြစ် ကျော်ကြားခဲ့ပါသည်။

---

*၁ မုံရွာမြို့၊ ရတနာပုံရပ် ဆရာကြီးဦးစိုးဂေါင်၏ (၂၃–၄–၁၉၇၆)နေ့ ပြောပြချက်ဖြစ်သည်။

*၂ J.P.Hardiman' Lower Chindwin District Gazetteer, Vol. A. 1912, Page-33.

*၃ ရှေးသာဖံကျောင်းဆရာတော်များကို လူအမည်ဖြင့်သာ အသိများကြပြီး၊ သာဖံတိုက်မှ ဆရာတော်ဦးလွှား၊ ဆရာတော် ဦးပုလဲ–စသည်ထင်ရှားကြ၏။ သာဖံတိုက်၌ကျောင်းထိုင်ဆရာတော်အစဉ်အဆက်တွင် ကျောင်းတည်နှင့် ပထမဆရာတော် စသည်ကို မသိမိလိုက်ကြဘဲ ဒုတိယဆရာတော်မှာ ဦးစိတ္တရ၊ တတိယမှာ ဦးသီရိ(နောင်–ပါဋိဆရာထွန်း)၊ စတုတ္ထမှာ ဦးဝါသဝ၊ ပဉ္စမမှာ ဦးဣသရနှင့် ဦးတေဇဝန္တ –တို့ဖြစ်တော်မူကြကြောင်း သိရပါသည်။

*၄ မင်းခင်းတိုက်တည်နှင့် ပထမမင်းခင်းဆရာတော်မှာ မင်းတုန်းမင်းကြီး၏ သမီးတော် သီရိသုမင်္ဂလာနန္ဒာဒေဝီမင်းသမီး၏ အကိုးကွယ်ခံ ရာဇဂုရုတံဆိပ်နှစ်ထပ်ရ မင်းခင်းဆရာတော်အရှင်ဝိမလ ဖြစ်ပါသည်။

ထို့ပြင် (ယခု–မြင်းမူလမ်းပေါ်ရှိ) ဖောင်းချမ်းပင်တိုက်၌သီတင်းသုံးနေသော ဒုတိယ ဖောင်းချမ်းပင်ဆရာတော် အရှင်ပြဟ္မသီရိသည် သက္ကရာဇ်–၁၂၁၆(အေဒီ–၁၈၅၄)ခုနှစ်ဖွားဖြစ်၍ သက်တော်ရွယ်တော်အားဖြင့် ငယ်တော်မူလင့်ကစား ပရိယတ်ပညာအရာ၌ လိုက်မမီအောင် အတော်လွန်သော ပညာမြွေပွေးကြီးတစ်ကောင်အဖြစ်ထင်ရှားနေပါသည်။

အထက်ဖော်ပြပါ မုံရွာမြို့၏မြွေပွေးကြီးသုံးကောင်ဟု ထင်ရှားလျက်ရှိသော ဆရာတော် သုံးပါးတို့တွင် ပိဋကတ္တယပါဠိရဂူကျောက်စာပြဿနာဖြစ်ပြီးသည့်မှစ၍ လယ်တီတောရဘုန်းကြီး အရှင်ဉာဏသည်လည်း အထိမခံသော အာဇာနည်ထေရ်စာရင်းမှာသွင်းကာ မြွေပွေးကြီး တစ်ကောင်အဖြစ် တင်စားခေါ်ဝေါ်ကြတော့သည်။ ထိုအခါမှစ၍ သာဖံဆရာတော်ဦးပုလဲ၊ ဒုတိယမင်းခင်းဆရာတော်၊ လယ်တီတောရဆရာတော်နှင့် ဒုတိယဖောင်းချမ်းပင်ဆရာတော်– ဟု မုံရွာမြို့တွင် မြွေပွေးကြီးလေးကောင်ရှိကြောင်း ပြောဆိုခဲ့ကြပါသည်။*၁

## လယ်တီနှင့်ဖောင်းချမ်းပင်

လယ်တီတောရဆရာတော်သည် ဒုတိယဖောင်းချမ်းပင်ဆရာတော်ဦးပြဟ္မသီရိအား မိမိ အောက် သက်တော်ရှစ်နှစ်ငယ်လင့်ကစား စာပေပရိယတ်ကျွန်လှသဖြင့် ပညာရှင်ကိုနှစ်သက် မြှောက်စား အားထားလိုသောစိတ်ဓာတ်ရှိသည့်အားလျော်စွာ 'ဗိုလ်ကလေး'ဟုခေါ်ကာ ချီးမြှောက် ခဲ့သည်။

ဒုတိယဖောင်းချမ်းပင်ဆရာတော်သည် သက္ကရာဇ်–၁၂၁၆ (အေဒီ–၁၈၅၄)ခုနှစ်ဖွားသည်။ ဇာတိမှာ မုံရွာမြို့တောင် သုံးမိုင်ခန့်အကွာ မအူကြီးရွာဖြစ်သည်။ ဒုတိယဖောင်းချမ်းပင်လောင်းလျာ သည် သက်တော် ၁၉–နှစ်အရွယ်တွင် မုံရွာမြို့ ဖောင်းချမ်းပင်တိုက်*၂သို့ရောက်၍၊ သက္ကရာဇ်– ၁၂၃၅(အေဒီ–၁၈၇၃)ခုနှစ်တွင် ပထမဖောင်းချမ်းပင်ဆရာတော်က ဥပဇ္ဈာယ်ပြုပြီး ရဟန်းအဖြစ် သို့ရောက်သည်။ ဘွဲ့မှာ 'အရှင်ပြဟ္မသီရိ'ဖြစ်သည်။ ရဟန်းနှစ်ဝါအရမှာပင် စာသင်လောက၌ ထင်ရှားသော စာချပုဂ္ဂိုလ်ဖြစ်ခဲ့သည်။ ရဟန်း ၁၀–ဝါအရတွင် ဝဇ္ဇနယပုတ္တိကာထာနိသျကျမ်း(၁၂၄၆– ခု၊ အေဒီ–၁၈၈၄)၊ ရဟန်း ၂၈–ဝါအရတွင် ကစ္စာယနဝုတ္တိသစ်ကျမ်း(၁၂၆၄–ခု၊ အေဒီ– ၁၉၀၁) တို့ကိုပြုစုခဲ့သည်။

လယ်တီတောရဆရာတော်သည် စာချချိန်ပြီး ညနေချမ်းအခါတိုင်လျှင် လယ်တီတောရမှ တောင်ဘက်အတိုင်း လမ်းလျှောက်ကြွတော်မူလေ့ရှိရာ၊ ထန်းတောကြီးအနီးရှိ ဘုရားလှစေတီ သို့လည်းရောက်လေ့ရှိသည်။ ထိုဘုရားလှစေတီအနီး၌ ဇရပ်ကြီးတစ်ဆောင်ရှိရာ၊ ထိုဇရပ်ကြီး၌

---

*၁ သလ္လာစိုးမြင့်၏ ချင်းတွင်းမှမင်းခင်းဆရာတော်(ဆောင်းပါး)။ ချင်းတွင်းမဂ္ဂဇင်း၊ ၁၉၈၇–ခုနှစ်။ (စာမျက်နှာ–၆၇)။

*၂ မုံရွာမြို့ ဖောင်းချမ်းပင်တိုက်မှာ ၁၂၂၄–ခုနှစ်၊ သီတင်းကျွတ်လဆန်း ၁၃–ရက် (အေဒီ–၅၊ ၁၀၊ ၁၈၆၂)တွင် ပေပုကူးမုံရွာ ညောင်တပင်ရပ် ကျောင်းဒကာ ဦးမောင်၊ ဒေါ်ရွှေကျော့တို့ကဆောက်လှူသောကျောင်းဖြစ်သည်။ ကျောင်းတိုက်မတည် မီက တောစိုးဖောင်းချမ်းပင်ကြီးတစ်ပင်ရှိရာ ထိုဖောင်းချမ်းပင်ကြီးကိုအမှီပြု၍ ဖောင်းချမ်းပင်ကျောင်းဟုခေါ်တွင်ခြင်း ဖြစ်သည်။ အသျှင်ပြဟ္မသီရိထေရ်၏ ကစ္စာယနဝုတ္တိသစ်။ တိုင်းလုံးမိတ်ဆွေပုံနှိပ်တိုက်၊ မုံရွာမြို့။ ၁၂၈၈–ခုနှစ်။ (စာမျက်နှာ– ၁၂၃၊ ၁၂၄၊ ၁၂၅)။

နားနေစဉ် ဒုတိယဇောင်းချမ်းပင်ဆရာတော်အရှင်ဖြူဟ္ဘသိရှိကြွလာပြီး လယ်တီတောရဘုန်းကြီးကို ဝတ်ပြုလေ့ရှိသည်။ ထိုဇရပ်မှာ နားနားနေနေသီတင်းသုံးကြရင်း ဆရာတော်နှစ်ပါး ချစ်ကြည်ရင်းနှီးစွာ ပရိယတ်စာပေအထွေထွေတို့ကို ဆွေးနွေးတော်မူလေ့ရှိကြပါသည်။

## သတ္တဝိသတိမဝါဆိုတော်မူခြင်း

သက္ကရာဇ် ၁၂၅၄–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၉၂–ခုနှစ်၊ ဇွန်/ဇူလိုင်လ)တွင် လယ်တီဆရာတော်ကြီးသည် လယ်တီတောရကျောင်းမှာပင် (၂၇)ကြိမ်မြောက်သတ္တဝိသတိမဝါ ကပ်ဆိုတော်မူခဲ့ပါသည်။

ထိုနှစ် ဝါဆိုလအခါတွင် လယ်တီတောရကျောင်းသို့ ၁၆–နှစ်အရွယ်ရှိ ကိုရင်လေးရှင်မဟိန္ဒ ရောက်ရှိလာပါသည်။*၁ ထိုရှင်မဟိန္ဒသည် မုံရွာခရိုင်၊ အရာတော်မြို့နယ် ဝါးတောမရွာကြီးဇာတိဖြစ်၏။ ငယ်စဉ်က မိမိရပ်ရွာ၌ ပညာစတင်သင်ယူခဲ့ပြီးနောက် မုံရွာခရိုင်၊ သာစည်မြို့ ဆုတောင်းပြည့်စေတီအနီး ချောက်ကြီးတောရကျောင်းဆရာတော်ထံ၌ပညာသင်ယူခဲ့၏။ ထိုမှ မုံရွာမြို့ လယ်တီတောရကျောင်း လယ်တီဆရာတော်ကြီး၏ခြေတော်ရင်းသို့ရောက်ရှိ ခဲ့ခြင်းဖြစ်သည်။

## မင်းကင်းမြို့မှအမေးပုစ္ဆာများ

ထိုနှစ် သီတင်းဝါလကျွတ်လျှင် မုံရွာမြို့မြောက် အထက်ချင်းတွင်းမြစ်ညာရှိ မင်းကင်းမြို့မှ ယွန်းကျောင်းဂိုဏ်းထောက်ဆရာတော်က မုံရွာချင်းတွင်းဒေသအတွင်း အဘိဓမ္မာဘက်၌ နာမည်ကျော်နေတော်မူသော မုံရွာမြို့ လယ်တီတောကျောင်းဆရာတော်ထံတော်သို့ 'သင်္ဂြိုဟ်ကျမ်းလာ ရူပပဝတ္တိက္ကမ(ရုပ်၏ဖြစ်စဉ်)တွင်*၂ ကမ္ဘဇရုပ်,စိတ္တဇရုပ်တို့၏ချုပ်စဉ်ဝယ် ကျမ်းဆရာတို့ အဆိုအယူ မတူကွဲလွဲရှိကြရာ အဘယ်အယူသည်သာ အာဂုံယုတ္တိအင်အားရှိသည်ကို စိစစ်ရွေးချယ်ပြီးလျှင် စတုဇရုပ်တို့၏ချုပ်ရုပ်ပြတ်စဲရာခဏများကို သိမှတ်လိုပါကြောင်း' အစရှိသည့် အမေးပုစ္ဆာကို စာဖြင့်လျှောက်ထားခဲ့ကြပါသည်။

## ပထမဦးဆုံးသောဒီပနီကျမ်းလော

မင်းကင်းမြို့ ယွန်းချောင်းကျောင်းဂိုဏ်းထောက်ဆရာ၏ ရူပပဝတ္တိက္ကမဆိုင်ရာ အမေးပုစ္ဆာပြဿနာကိုဖြေဆိုရာ၌ လယ်တီဆရာတော်ကြီးက–

> '၁၂၅၄–ခု၊ တန်ဆောင်မုန်းလပြည့်ကျော် ၁၀–ရက် (အေဒီ–၁၃၊နိုဝင်ဘာလ၊ ၁၈၉၂)တွင် မင်းကင်းမြို့ ယွန်းကျောင်းဂိုဏ်းထောက်ဆရာက စာလွှာစေလွှတ်လျှောက်ထားတောင်းပန်အပ်သည်ဖြစ်၍ လေကူးမြို့ လယ်တီတောကျောင်းဆရာ

*၁ ထိုအရှင်မဟိန္ဒသည် နောင်အခါ လယ်တီဆရာသိန်းဟု ထင်ရှားလာမည့်ပုဂ္ဂိုလ်ဖြစ်ပါသည်။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၃၆၄)။

*၂ အရှင်အနုရုဒ္ဓါမထေရ်၏ အဘိဓမ္မတ္ထသင်္ဂဟပါဠိ။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၈၁–ခုနှစ်။ (စာမျက်နှာ–၁၀၈)။

# မုံရွာမြို့ လယ်တီတောရတိုက်၏ ကျောင်းဒကာများ





ဦးဖိုးကြန့်နှင့်ဇနီး





ဦးလူနီနှင့်ဇနီး





ဆရာသဲကြီးနှင့်ဇနီး

ငါသည် အာဂုံယုတ္တိနှင့်တကွ ရူပဒီပနီကို ရေးသားပြဆိုပေအံ့သတည်း'ဟူသော ပဋိညာဉ်စကားဖြင့် အစချီရေးသားထားပါသည်။*၁

ဖော်ပြပါပဋိညာဉ်စကားအရ လယ်တီဆရာတော်သည် ဤရူပပဝတ္တိက္ကမပုစ္ဆာဝိဿဇ္ဇနာ အဖြေကို 'ရူပဒီပနီ'ဟူ၍ ကျမ်းအမည်ပေးထားကြောင်းသိနိုင်သည်။ ဤကျမ်းသည် လယ်တီဆရာတော်၏ 'ဒီပနီ'အမည်တပ်၍ ပြုစုတော်မူခဲ့သောကျမ်းစာများတွင် ရှေးဦးပထမဖြစ်လေသည်။*၂ လယ်တီဆရာတော်သည် အဋ္ဌကထာ၊ ဋီကာကျမ်းပြုဆရာတော်အရှင်ဓမ္မပါလထေရ်ကို အားကျသည်ဖြစ်၍ မိမိပြုစုသောကျမ်းများစွာတို့ကို 'ဒီပနီ'ဟူသောအမည်ထူးကို သုံးစွဲတော်မူခြင်းဖြစ်ဟန်တူပေသည်။ အရှင်ဓမ္မပါလမထေရ်သည် ပိဋကတ်သုံးပုံပါဠိတော်တို့တွင် ဥဒါန်း၊ ဣတိဝုတ်၊ ဝိမာန၊ ပေတ၊ ထေရဂါထာ၊ ထေရီဂါထာ၊ စရိယာပိဋက၊ နေတ္တိဟုဆိုအပ်သော ခုဒ္ဒကနိကာယ်အဝင် ပါဠိတော်ကျမ်းများကို အဋ္ဌကထာဖွင့်ဆိုရာတွင် 'နေတ္တိကျမ်းအဋ္ဌကထာမှ တပါး ကျန်အဋ္ဌကထာခုနစ်ကျမ်းတို့ကို ပရမတ္ထဒီပနီဟူ၍ 'ဒီပနီ'အမည်မှည့်ခေါ်အသုံးပြုတော်မူခဲ့ပါသည်။

ဤရူပဒီပနီကျမ်းသည် အဘိဓမ္မတ္ထသင်္ဂဟ(သင်္ဂြိုဟ်ကျမ်း)ဆဋ္ဌမမြောက်အပိုင်း ရုပ်ပိုင်းလာ ရူပပဝတ္တိက္ကမဖြစ်စဉ်အကြောင်းကို ရှင်းလင်းပြသသောကျမ်းဖြစ်ပါသည်။ အဘိဓမ္မာအရာ၌ ကျွမ်းကျင်နှံ့စပ်သောပုဂ္ဂိုလ်တို့ကမေးသော အမေးပုစ္ဆာဖြစ်သည့်အတွက် လယ်တီဆရာတော်ကြီးသည် ဤအမေးပုစ္ဆာကိုဖြေဆိုတော်မူရာတွင် ပါဠိတော်, အဋ္ဌကထာ, ဋီကာ ဂဏ္ဌိ, မူလဋီကာ, အနုဋီကာ, မဓု, ယောဇနာ, ဂန္ထန္တရကျမ်းဂန်များစွာကို ကိုးကားပြီး ကျယ်ဝန်းကျနစွာ ဖြေဆိုတော်မူခဲ့ပါသည်။*၃ သို့ကိုးကားထားခဲ့သော နိကာယ်ငါးရပ်ပိဋကတ်သုံးပုံနှင့် ဂန္ထန္တရကျမ်း အစောင်စောင်တို့ကိုရှုပါက လယ်တီဆရာတော်ကြီးသည် မန္တလေးမြို့ စံကျောင်းတိုက်၌နေစဉ်

*၁ လယ်တီဆရာတော်ကြီး၏ ရူပဒီပနီနှင့် နိဗ္ဗာနဒီပနီကျမ်း။ ဟံသာဝတီသတင်းစာတိုက်၊ ရန်ကုန်မြို့။ ၁၂၆၂-ခုနှစ်။ (စာမျက်နှာ-၁)။

*၂ လယ်တီဆရာတော်ကြီးသည် သက္ကရာဇ်-၁၂၄၁(အေဒီ-၁၈၇၉)ခုနှစ်၊ ၁၄-ဝါရတော်မူစဉ်က ရေးသားသော ပါရမီဒီပနီကျမ်းကို မူလရေးစဉ်က ဝိသတိပုစ္ဆာဝိဿဇ္ဇနာကျမ်းဟုခေါ်တွင်စေခဲ့၏။ နောင်ပုံနှိပ်သောအခါ၌ ပါရမီဒီပနီဟူသောအမည်ကို သုံးစွဲခြင်းဖြစ်ပါသည်။ ထို'ပါရမီဒီပနီ'ဟူသောအမည်ကိုပင် လယ်တီဆရာတော်ဘုရားကြီး မှည့်ခေါ်သောအမည် ဟုတ်ဟန်မတူ၊ ထိုကျမ်းကိုကြည့်ကြပ်ပုံနှိပ်ရသော လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး မှည့်ခေါ်ဟန်တူကြောင်းတွေ့ရသည်။

*၃ ရူပဒီပနီကျမ်း၌ လယ်တီဆရာတော်ဘုရားကြီး ကျမ်းကိုးဖော်ပြထားသော ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ စသည်များကို အကြမ်းဖျင်းစာရင်းကောက်ယူရာ- ဒီဃနိကာယ်ပါဠိတော်၊ မဇ္ဈိမနိကာယ်ပါဠိတော်၊ သံယုတ္တနိကာယ်ပါဠိတော်၊ အင်္ဂုတ္တရနိကာယ်ပါဠိတော်၊ ဓမ္မပဒပါဠိတော်၊ သုတ္တနိပါတပါဠိတော်၊ မိလိန္ဒပဉှာပါဠိတော်၊ နေတ္တိပါဠိတော်၊ ဓမ္မသင်္ဂဏီပါဠိတော်၊ ဝိဘင်းပါဠိတော်၊ ဓာတုကထာပါဠိတော်၊ ယမိုက်ပါဠိတော်၊ ပဋ္ဌာန်းပါဠိတော်၊ ဒီဃနိကာယ်အဋ္ဌကထာ၊ မဇ္ဈိမနိကာယ်အဋ္ဌကထာ၊ သံယုတ်အဋ္ဌကထာ၊ ပါရာဇိကဏ်အဋ္ဌကထာ၊ အဋ္ဌသာလိနီအဋ္ဌကထာ၊ ဝိဘင်းအဋ္ဌကထာ၊ ဓာတုကထာအဋ္ဌကထာ၊ ပဋ္ဌာန်းအဋ္ဌကထာ၊ ပဋိသမ္ဘိဒါမဂ်အဋ္ဌကထာ၊ ဝိသုဒ္ဓိမဂ်အဋ္ဌကထာ၊ သံယုတ်ဋီကာ၊ ပဏ္ဏာသဋီကာ၊ ဝိဘင်းဋီကာ၊ ယမိုက်ဋီကာ၊ မူလဋီကာ၊ အနုဋီကာ၊ အဘိဓမ္မာဝတာရဋီကာ၊ သာရတ္ထဒီပနီဋီကာ၊ သစ္စသံခိပ်ဋီကာဟောင်း၊ သစ္စသံခိပ်ဋီကာသစ်၊ သင်္ခေပဝဏ္ဏနာဋီကာ၊ ဋီကာကျော်၊ မဏိမဉ္ဇူသာဋီကာ၊ ယမိုက်အရကောက်၊ ယမိုက်ဂဏ္ဌိ၊ နာမရူပပရိစ္ဆေဒ၊ ပရမတ္ထဝိနိစ္ဆယ၊ ခေမပကာရဏ၊ အဘိဓမ္မတ္ထသင်္ဂဟဒီပနီ၊ သင်္ဂြိုဟ်နိသျှဟောင်း၊ သင်္ဂြိုဟ်အကောက်ဟောင်းနှင့် သာရကောမုဒီဆေးကျမ်း-စသည်တို့ပါဝင်ကြောင်း တွေ့ရှိရပါသည်။

အခါက အဘိဓမ္မတ္ထဝိဘာဝိနီဋီကာကျော်နှင့် မောဂ္ဂလ္လာနတို့ကိုလေ့လာရန်အတွက် ကျမ်းများစွာကို ကြည့်ရှု၍ မှတ်စုများထုတ်နုတ်ခဲ့သည်ဟူသောအချက်သည် အမှန်ဖြစ်ကြောင်းသိနိုင်လေသည်။

ထို့ပြင် မန္တလေးမြို့၌နေစဉ်ကစုဆောင်းခဲ့သော အဘိဓမ္မာမှတ်စုများသည် သက္ကရာဇ် ၁၂၄၈ (အေဒီ–၁၈၈၆) ခုနှစ် မန္တလေးမြို့ မြောက်ပြင်မီးကြီးလောင်မြိုက်ရာ၌ ပါဝင်သွားခဲ့ပြီဖြစ်သော်လည်း လယ်တီဆရာတော်ကြီး၏အသိဉာဏ်မှန်ပြင်၌မူ ထိုထိုသောစာပေအမှတ်အသားတို့သည် စွဲထင်ကျန်ရစ်လျက်ရှိပြီး မည်သည့်ရန်သူမျိုးကမှ ဝါးမျိုဖျက်ဆီးနိုင်မည်မဟုတ်ရကား ဆရာတော်ကြီးသည် 'ပေါတ္ထကေသု စ သိပ္ပံ'[*၁] ဟူသော (ပေစာ, စာအုပ်တို့၌သာ အတတ်ပညာတည်သော) ပညာရှင်မျိုးမဟုတ်ဘဲ ဓမ္မက္ခန်ဉသုံးတရားအလုံးစုံတို့ကို အစဉ်အမှတ်ရလျက် နှုတ်ငုံဆောင်ထားနိုင်သော သုတဗုဒ္ဓတိပိဋကတ္တယပါရဂူအမှန်ဖြစ်တော်မူကြောင်း ထင်ရှားလှပေသည်။

ထိုရူပဒီပနီကျမ်း၌ လယ်တီဆရာတော်၏ကျမ်းဂန်နှင့်စပ်မှုသဘောကိုသာမက ကျမ်းအချင်းချင်း အယူမတူရာ၌ ညှိနှိုင်းတတ်သောအလေ့ဝါသနာကိုပါတွေ့လာရသည်။ ဤအလေ့သည် စံကျောင်းဆရာတော်ကြီးဦးသုဒဿနထံတော်မှကူးစက်ခဲ့သောအလေ့ဖြစ်သည်။ သို့ပါသော် လယ်တီဆရာတော်ကမူ ကျမ်းအချင်းချင်းညှိနှိုင်းရာ၌ ညှိနှိုင်းရုံမျှသာမက ထိုကျမ်းအသီးသီးတို့၏အဆိုအမိန့်ကွဲပြား အယူဝါဒမညီမျှသည့်နေရာများတွင် မူရင်းဖြစ်သော ပါဠိတော်,အဋ္ဌကထာစသည်ကို လက်ကိုင်ထားပြီး ထိုထိုသောကျမ်းဂန်လာအယူအဆတို့ကို မိမိ မြင်တွေ့သည့်အတိုင်း ဝေဖန်ချက်ချတော်မူခဲ့ပါသည်။ ဤအချက်ကား လယ်တီဆရာတော်၏ပကတိထက်မြက်သော ဉာဏ်ကိုပြခြင်းသာဖြစ်သည်။ ပမာအားဖြင့်– 'သစ္စသံခိပ်ဋီကာသစ်စကားများကို အမှန်အားဖြင့် မယုံထိုက်'၊[*၂] 'ဤဋီကာကျော်စကားကိုလည်း အမှန်အားဖြင့်မယူအပ်'၊[*၃] 'သင်္ခေပဋီကာစကားများကိုလည်း အမှားသက်သက်သာမှတ်ရမည်'၊[*၄] 'အဘိဓမ္မတ္ထဒီပနီဆရာ, အရပ်ရပ်သင်္ဂြိုဟ်အဓိပ္ပာယ်ဆရာ, အကောက်ဆရာတို့သည်လည်း ဋီကာကျော်၏နောက်လိုက်သာဖြစ်ကြကုန်သည်'[*၅] စသည့်စကားရပ်တို့ကို ထောက်ချင့်ရန်ဖြစ်သည်။

ထို့ပြင် လယ်တီဆရာတော်ကြီးက ကျမ်းပြုပုဂ္ဂိုလ်၏ဟိတ်က ကြီးမားနေသောကြောင့် ကျမ်းစာသားချွတ်ယွင်းမှုတွေ့လျှင် မပြင်ဝံ့ဘဲ မိမိတို့အပြစ်လွတ်စေရန် ပြောလေ့ဆိုလေ့ရှိသော 'ငါတို့ဉာဏ်မမှီ'ဟူသောစကားရပ်နှင့်စပ်၍ 'ထိုစကားသည် ကျမ်းကြီးကျမ်းငယ်တို့ကို ခေါင်ခေါင်အားအား မချောက်ချားနိုင်၍ ကျမ်းဂန်ဆိုလျှင်ယုံကြည်ရသည် မှတ်ထားသော ယောက်ျား,

---

[*၁] လောကနီတိ၊ ဂါထာ–၁၃။

[*၂] လယ်တီဆရာတော်၏ ရူပဒီပနီ။ ၁၂၆၂–ခုနှစ်။ (စာမျက်နှာ–၂၉)။

[*၃] လယ်တီဆရာတော်၏ ရူပဒီပနီ။ ၁၂၆၂–ခုနှစ်။ (စာမျက်နှာ–၂၉)။

[*၄] လယ်တီဆရာတော်၏ ရူပဒီပနီ။ ၁၂၆၂–ခုနှစ်။ (စာမျက်နှာ–၃၀)။

[*၅] လယ်တီဆရာတော်၏ ရူပဒီပနီ။ ၁၂၆၂–ခုနှစ်။ (စာမျက်နှာ–၃၀)။

မိန်းမ မနုဿပုဂ္ဂိုလ်အများတို့ပြောရိုးပြောစဉ်စကားပင်တည်း' *၁ ဟူ၍လည်း ဝေဖန်ရေးသားတော်မူခဲ့ပါသည်။

မင်းကင်းမြို့ ယွန်းကျောင်းဂိုဏ်းထောက်ဆရာ၏အမေးကိုဖြေကြားသော ရူပဒီပနီကျမ်းကို လယ်တီတောရဆရာတော်အရှင်ဉာဏမဟာထေရ်သည် တစ်လအတွင်းမှာပင် ဖြေဆိုတော်မူလေရာ၊ သက္ကရာဇ် ၁၂၅၄–ခုနှစ်၊ နတ်တော်လပြည့်ကျော် ၈–ရက် (အေဒီ–၁၁၊ ဒီဇင်ဘာလ၊ ၁၈၉၂)ခုနှစ် *၂ တွင် အပြီးသတ်တော်မူခဲ့သည်။

## မင်းကင်းမြို့၌ ဘုရားမရှိဝါဒထွန်းကား

မင်းကင်းမြို့ ယွန်းကျောင်းဂိုဏ်းထောက်ဆရာတော်ထံသို့ မုံရွာလယ်တီဆရာတော်၏ သင်္ဂြိုဟ်ရုပ်ပိုင်းလာအဖြေလွှာ(ရူပဒီပနီ)ရောက်ရှိ၍ ဖတ်ရှုကြရာ အလွန်ကျေနပ်အားရကြသည် ဖြစ်ပြီးလျှင် ထိုမင်းကင်းမြို့မှ ဗုဒ္ဓဘာသာဝင်သူတော်စင်အပေါင်းတို့က မိမိတို့မြို့ရွာမှာဖြစ်ပေါ်နေသော အယူဝါဒများနှင့်စပ်လျဉ်း၍ ဖြေရှင်းပေးပါရန် လယ်တီဆရာတော်ကြီးထံ အမေးပုစ္ဆာ ၉–ခုကို ထပ်မံ၍ပေးပို့လျှောက်ထားကြပြန်လေသည်။

ထိုစဉ်က မင်းကင်းမြို့၌ဖြစ်ပေါ်နေသော အယူအဆများသည် ဘုရားဟောပါဠိတော်နှင့် ဆင်တူယိုးမှား ပရိယတ္တိသဒ္ဓမ္မပဋိရူပကအယူအဆမျိုးဖြစ်လေသည်။ ထိုအတုအယောင်တရားဓမ္မများပေါ်လာလျှင် တရားစစ်တရားမှန် သဒ္ဓမ္မသုံးဖြာသာသနာသည် ကွယ်ပျောက်တတ်ကြောင်းနှင့် ဤသို့ သာသနာ့ဘေးရန်များဖြစ်ပေါ်လာလျှင် ထိုဘေးရန်တို့ကိုတွန်းလှန်ပယ်ဖျောက်စေရန် ကြိုးစားအားထုတ်ကြရမည်(အံ၊၂။၉၃။) ဟူ၍ အင်္ဂုတ္တိုရ်ပါဠိတော်၌ဟောတော်မူပြီးရှိလေရာ၊ လယ်တီဆရာတော်ကြီးသည် သာသနာ့အန္တရာယ်ကာကွယ်ရေးကိုရှေ့ရှုပြီး မင်းကင်း မြို့သူမြို့သားတို့၏ပုစ္ဆာကို ဖြေကြားပေးတော်မူခဲ့ပါသည်။

မင်းကင်းမြို့သူမြို့သားတို့၏ပုစ္ဆာတွင် 'မြတ်စွာဘုရားသည် ဆွမ်းမစား'၊ *၃ 'သဗ္ဗညုတဉာဏ်တော်သာ ဘုရားဖြစ်သည်၊ ခန္ဓာသည် ဘုရားမဟုတ်'၊ *၄ 'ရုပ်ပွားဆင်းတုတော်တို့ကို ကိုးကွယ်၍အကျိုးမရှိ' ဟူသော မေးခွန်းမျိုးတို့ပါဝင်နေပါသည်။

ထိုအမေးပြဿနာမျိုးသည် တတိယသံဂါယနာတင်သော အသောကမင်းလက်ထက် (၃–ရာစုဘီ၊စီ)ကာလကပင်ရှိခဲ့သော ပြဿနာမျိုးဖြစ်သည်။ တတိယသဂါယနာတင်ကာလ၌ အထူးထင်ရှားခဲ့သော ကထာဝတ္ထုပါဠိတော်ကြီးမှာပင် 'န ဝတ္တဗ္ဗံ ဗုဒ္ဓဿ ဒိန္နံ မဟပ္ဖလန္တိကထာ- ဘုရားရှင်သည် လူသားမဟုတ်၍ ဆွမ်းစသည် စားသောက်ရန်မလို' ဟူသောအယူမှာ ဝေတုလ္လဂိုဏ်း၏အယူဖြစ်ကြောင်းဖော်ပြထား၏။ (ကထာ။၄၀၃။)။ ထိုဝေတုလ္လဂိုဏ်းသည် မဟာယာနနှင့်

---

*၁ လယ်တီဆရာတော်၏ ရူပဒီပနီ။ ၁၂၆၂–ခုနှစ်။ (စာမျက်နှာ–၃၂)။

*၂ လယ်တီဆရာတော်ကြီး၏ ရူပဒီပနီနှင့် နိဗ္ဗာနဒီပနီ။ ၁၂၆၂–ခုနှစ်။ (စာမျက်နှာ–၁၀၃)။

*၃ လယ်တီဆရာတော်၏ သာသနဝိသောဓနီ၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၁၇၃)။

*၄ လယ်တီဆရာတော်၏ သာသနဝိသောဓနီ၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၁၇၃)။

တန္တ ရဂိုဏ်းတို့၏ ရှေ့ပြေးဂိုဏ်းဖြစ်၏။*၁ ဝေတုလ္လဂိုဏ်းအယူအဆ ဦးစွာပြန့်နှံ့ပြီးနောက် ကာလ အတန်ကြာလျှင် မဟာယာနအယူလွှမ်းမိုးလာတော့သည်။ ဝေတုလ္လဂိုဏ်းသည် သီဟိုဠ်ကျွန်းရှိ ထေရဝါဒီရဟန်းတော်များကို အမြစ်ပြုတ်အောင်တိုက်ခိုက်ခဲ့သောဂိုဏ်းလည်းဖြစ်သည်။*၂ ထိုဂိုဏ်းက 'ဘုရားရှင်သည် ဆွမ်းမစား၊ ထို့အတူ ရဟန်းသံဃာအားလည်း လှူဒါန်းစရာမလို၊ လှူလည်းကုသိုလ်ရမည်မဟုတ်' စသည်ဖြင့်ပြောဆိုကြခြင်းသည် သာသနာတော်ခန်းခြောက်အောင်လုပ်ကြခြင်းပင်ဖြစ်သည်။

ထို့ပြင် 'ခန္ဓာသည် ဘုရားမဟုတ်၊ ဉာဏ်တော်ကသာဘုရားဖြစ်သည်' ဟူသောအယူနှင့် ဆက်စပ်ပြီး မြန်မာနိုင်ငံအထက်အောက်အရပ်ဒေသတို့တွင် ခန္ဓာအသင်း၊ ဉာဏ်အသင်း၊ မာရ်အသင်းဟူသော အသင်းများပေါ်ပေါက်ခဲ့ဖူး၏။*၃ ထိုခန္ဓာအသင်း၊ မာရ်အသင်းအကြောင်းများနှင့်စပ်၍ လယ်တီဆရာတော်ကြီးရေးသားတော်မူသည်မှာ ဤသို့ဖြစ်၏။

'ရှေးအခါ၌ ငါတို့မြန်မာနိုင်ငံတွင် မာရ်အသင်း၊ ဉာဏ်အသင်း၊ ခန္ဓာအသင်း- ဟူ၍ ဖြစ်ပေါ်ဖူး၏။ မာရ်အသင်းဆိုသည်ကား ငါတို့သည် ယခုဘဝတွင် မာရ်ငါးပါးကို အောင်နိုင်ကြကုန်ပြီဟု ယူသောအသင်းပေတည်း။ မာရ်ငါးပါးဆိုသည်ကား- (၁) ဒေဝပုတ္တမာရ်တစ်ပါး၊ (၂) ကိလေသာမာရ်တစ်ပါး၊ (၃) အဘိသင်္ခါရမာရ်တစ်ပါး၊ (၄) ခန္ဓမာရ်တစ်ပါး၊ (၅) မစ္စုမာရ်တစ်ပါး၊ ဤကား မာရ်ငါးပါးတည်း။

ထိုသူတို့၏အလိုအားဖြင့် မာရ်ငါးပါးကိုအောင်ပုံကား- (၁) ငါတို့သည် သေသည်မှနောက်၌ နတ်သား၊နတ်သမီးဖြစ်ခြင်းကို အလိုမရှိကြကုန်ပြီ၊ ဤကား ဒေဝပုတ္တမာရ်ကိုအောင်ပုံတည်း။ (၂) ငါတို့၌ သာယာသောတဏှာ မရှိကြကုန်ပြီ၊ ဤကား ကိလေသာမာရ်ကိုအောင်ပုံတည်း။ (၃) ငါတို့သည် ကုသိုလ်ကံ၊အကုသိုလ်ကံကို မပြုကြကုန်ပြီ၊ ဤကား အဘိသင်္ခါရမာရ်ကိုအောင်ပုံတည်း။ (၄) ငါတို့သည် သေသည်မှနောက်၌ ဘဝခန္ဓာအသစ်ကို အလိုမရှိကြကုန်ပြီ၊ ဤကား ခန္ဓာမာရ်ကို အောင်ပုံတည်း။ (၅) ခန္ဓမာရ်ကိုအောင်လျှင် ဘဝအဆက်ဆက်သေခြင်းမှကင်းလွတ်သဖြင့် မစ္စုမာရ်ကိုလည်း အောင်လေတော့သည်။ ဤကား ဤသူတို့အလိုအားဖြင့် မာရ်ငါးပါးကိုအောင်ပုံတည်း။*၄

---

*၁ မောင်အုံ၏ ဗုဒ္ဓသာသနာတော် ၂၅၀၀-ခရီး။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ (စာမျက်နှာ-၃၄၀)။

*၂ ဝေတုလ္လဂိုဏ်းအကြောင်းကို မဟာစည်ဆရာတော်ဘုရားကြီး၏ ဝိသုဒ္ဓိမဂ်မြန်မာပြန်၊ ပဉ္စမတွဲ။ စာပေပေါင်းကူးပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၉-ခုနှစ်။ (စာမျက်နှာ-စူ၊ စေ၊ စော) နှင့် ပါဠိပါမောက္ခဆရာဉာဏ်၏ နိကာယသင်္ဂဟမြန်မာပြန်။ သာသနာ့ရောင်ခြည်စာစောင်၊ အတွဲ-၈၊ အမှတ်-၂။ ၁၉၅၉-ခုနှစ်။ (စာမျက်နှာ-၇၈) တို့၌ရှုပါ။

*၃ အရှင်အာစိဏ္ဏ၏ မဟာထေရာစိဏ္ဏဇာတ်တော်။ (စာမျက်နှာ-၄၀)၌ ရန်ကုန်တိုင်း၊ ဟံသာဝတီခရိုင်၊ သပြေကန်အပိုင် ညောင်ပင်ရွာ၌ မာရ်ဝါဒ၊ ဉာဏ်ဝါဒသမားများရှိကြောင်းကို ဖော်ပြထား၏။

*၄ လယ်တီဆရာတော်ကြီး၏ လယ်တီပဏ္ဍိတအဖြေပေါင်းချုပ်ကျမ်း၊ ပထမတွဲ။ ၁၂၈၅-ခုနှစ်။ (စာမျက်နှာ-၄၆၄)။

'ဉာဏ်အသင်းဆိုသည်ကား သဗ္ဗညုတဉာဏ်တော်အသင်းဟု ဆိုလို၏။ ငါတို့သည် သဗ္ဗညုတဉာဏ်တော်ကိုသာ ဘုရားအစစ်ဟုယုံကြည်၏။ ခန္ဓာတော်ကို ဘုရားအစစ်ဟု မယုံကြည်။ သဗ္ဗညုတဉာဏ်တော်ကိုသာ ငါတို့ ကိုးကွယ်၏။ ခန္ဓာတော်ကို ငါတို့ မကိုးကွယ်။ ဓာတ်တော်၊ မွေတော်၊ စေတီတော်၊ ပုထိုးတော်၊ ရုပ်ပွားတော်၊ ဆင်းတုတော်များကိုလည်း ငါတို့ မကိုးကွယ်ဟုယူသော အသင်းပေတည်း။'[*၁]

မြတ်စွာဘုရား၏ ရုပ်ပွားဆင်းတုတော်များကို ကိုးကွယ်ဆည်းကပ်ခြင်းသည် အကျိုးမရှိ-ဟူသောအယူအဆမှာ သက္ကရာဇ်-၁၁၂၅(အေဒီ-၁၇၆၃)ခုနှစ် ဆင်ဖြူရှင်မင်းလက်ထက် (အေဒီ ၁၇၆၃-၁၇၇၆)ကပေါ်ခဲ့သော ဇောတိဂိုဏ်း၏အယူအဆမျိုးဖြစ်၏။ ထိုဇောတိဂိုဏ်းအယူသည် သက္ကရာဇ်-၁၂၃၁(အေဒီ-၁၈၆၃)ခုနှစ် မင်းတုန်းမင်းကြီးလက်ထက် ဓာတ်ဆရာဦးပိုတို့တိုင်အောင် တည်ရှိခဲ့သည်။ ဦးပို မင်းမျက်သင့်ခဲ့သော်လည်း ဦးပို၏အယူအဆများသည် ဘုတလင်၊ မြို့ပေါ် စသောမြို့ရွာများ၌ ကြွင်းကျန်တည်ရှိနေပေ၏။ ထိုအယူအဆများသည် 'ပရမတ်မှောက်မှား အပါယ်လား'ဟု ဆိုစမှတ်အပြောခံရသော အယူဝါဒများဖြစ်၏။[*၂]

ထို့ပြင် ထိုခေတ်က သာသနာတော်၌ ဂိုဏ်းဂဏအမျိုးမျိုးပေါ်ထွန်းပုံနှင့်စပ်၍ သာသနဗဟုသုတပ္ပကာသနီကျမ်း၌ ဖော်ပြထားပုံမှာလည်း-

'ယခုအခါ သာသနာတော်၌ပေါ်ပေါက်လျက်ရှိနေသည်ကား ရသေ့ခေါ်သော ပရိဗိုဇ်ရဟန်းများစွာ ဂိုဏ်းဂဏဖွဲ့စည်းလျက်ရှိသည်။ ငှက်တွင်းခေါ်သောဂိုဏ်းဂဏ၊ မာရ်ခေါ်သော ဂိုဏ်းဂဏ- ထိုဂိုဏ်းဂဏနှစ်မျိုးတွင် ငှက်တွင်းခေါ်သောဂိုဏ်းဂဏဝင် အချို့သောသူများသည် ငါတို့မြတ်စွာဘုရား၏ကိုယ်စားတော်စား ရုပ်ပွားဆင်းတုတော်များကို မကိုးကွယ်ဟူ၏။ မာရ်ဂိုဏ်းဂဏသည် ရဟန်းသံဃာတော်များကို မကိုးကွယ်ဟူ၏။ မေတ္တာဂိုဏ်းဝင်များသည် မြို့ရွာလှည့်လည်၍ မေတ္တာတရားဟောပြောပြီးလျှင် ဆေးကုသည်ဟူ၏။ ဦးဥက္ကံသဂိုဏ်းဟူ၍လည်း တောင်တွင်းကြီးနယ်၌ ပေါ်ပေါက်လျက်ရှိ၏။ ကြိမ်ပုတီးစိပ်ရသည်ဟူ၏။ အတုပေါ်လာလျှင် အစစ်ပျောက်တတ်သည်ကို သတိပြုကြကုန်'[*၃]-ဟူ၍ဖြစ်သည်။

လယ်တီတောရဆရာတော်သည် မင်းကင်းမြို့သူမြို့သားတို့၏ အမေးပုစ္ဆာပြဿနာကိုးရပ်ကို ကျနရှင်းလင်း ဖြေဆိုတော်မူခြင်းဖြင့် အယူမှောက်မှား သာသနာကိုချောက်ချားနိုင်သော

---

*၁ လယ်တီဆရာတော်ကြီး၏ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်ကျမ်း၊ ပထမတွဲ။ ၁၂၈၅-ခုနှစ်။ (စာမျက်နှာ-၄၆၆)။

*၂ လယ်တီဦးလှပိုင်၏ စတုဘုမ္မိကမဂ္ဂင်သာသနာဝင်သမိုင်း။ ကျော်ဝင်းဆွေပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၆-ခုနှစ်။ (စာမျက်နှာ-၅၅)။ အချို့ကလည်း ဓာတ်ဆရာကြီး ဦးပိုသည် ဇောတိဂိုဏ်းနှင့် သက်ဆိုင်ခြင်းမရှိ-ဟုလည်း ယူဆကြသည်။

*၃ ဘုရားဖြူဆရာတော်၏ သာသနဗဟုသုတပ္ပကာသနီ။ ဒီးဒုတ်သတင်းစာတိုက်၊ ရန်ကုန်မြို့။ ၁၂၉၀-ပြည့်နှစ်။ (စာမျက်နှာ-၂၉၅)။

ထိုထိုသောဝါဒတို့ကို ပါဠိ,အဋ္ဌကထာစသော ဘုရားဟောဓမ္မက္ခန်တို့နှင့် တိုက်ဆိုင်ချေမှုန်းပစ်နိုင်သည်ဖြစ်၍ လယ်တီတောကျောင်းဆရာတော်အရှင်ဉာဏ၏ဂုဏ်သတင်းသည် ချင်းတွင်းမြစ်ရိုးတစ်လျှောက် အထူးပြန့်နှံ့ကျော်ကြားခဲ့လေတော့သည်။

**အဋ္ဌဝီသတိမဝါဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၅၅–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၉၃–ခုနှစ်၊ ဇွန်/ဇူလိုင်လ)တွင် 'သဘောလှေဖြင့် အကြေအညာစုန်ဆန်ကာလျှင် ဥစ္စာရှာမှီး လှေသူကြီးတို့၏ပျော်မှီးနေထိုင်ရာဖြစ်၍ လှေကူး အမည်ရှိသော (ဝါ) သမ္မာဒိဋ္ဌိအစရှိသော အရိယမဂ္ဂင် ဘောင်လှေယာဉ်ဖြင့် ရေယဉ်ထဲနက် ဝဲဂယက်မှ ကူးတက်လွန်မြောက်ရာဖြစ်၍ လှေကူးအမည်ရှိသောရွာမြတ်၌ ကုလလေးတာ ပြန်ငါးရာမျှ အကွာထောင့်သန်း ငှက်မင်းနန်းဝယ် ရပ်ချမ်းသိုက်မြိုက် တောကျောင်းတိုက်၌ ကောဇာသက္ကရာဇ်–၁၂၄၈(အေဒီ–၁၈၈၆)ဝယ် တိုက်သစ်တည်ကာနေထိုင်ပါသော လယ်တီတောကျောင်း*[၁] ဆရာအရှင်ဉာဏသည် သံဃာတော်လေးကျိပ်ကျော်တို့နှင့်အတူ*[၂] (၂၈)ကြိမ်မြောက် အဋ္ဌဝီသတိမဝါကို လယ်တီတောကျောင်းတိုက်မှာပင် ကပ်ဆိုတော်မူခဲ့ပါသည်။

**ပတ္တမြားမေတ္တာစာ**

ထိုနှစ်(အေဒီ–၁၈၉၃)တွင် လယ်တီတောရဆရာတော်သည် စစ်ကိုင်းတိုင်း၊ ဒီပဲယင်းမြို့ အရှေ့ဘက်တွင်တည်ရှိသော ရွှေသိမ်တော်မြတ်စွာဘုရားကြီးပြန်လည်ပြုပြင်ရန်အတွက် မိုးကုတ်မြို့ ကျောက်တွင်းသူဌေးဦးမှတ်ထံသို့ မေတ္တာစာတစ်စောင်ပေးပို့တော်မူခဲ့ပါသည်။

ထိုမေတ္တာစာတွင် သက္ကရာဇ်–၁၂၄၇(အေဒီ–၁၈၈၅)ခုနှစ် အင်္ဂလိပ်တို့ အထက်မြန်မာနိုင်ငံကို ဝင်ရောက်သိမ်းပိုက်စအခါက ကာလပျက်ခေတ်ဆိုးကိုအကာအကွယ်ယူကာ သိုက်ဆရာလူမသမာတို့သည် လောဘဇောတိုက်ပြီး ရွှေသိမ်တော်ဘုရားဌာပနာတိုက်ကိုဖောက်ခဲ့ကြသည်။ ဌာပနာတိုက်အတွင်းမှ အဖိုးတန်လက်ဝတ်ရတနာပစ္စည်းများကိုယူဆောင်သွားကြပြီး ဓာတ်တော်မွေတော်များကိုမူ ဖရိုဖရဲပစ်ထားခဲ့ကြသည်။ ထိုဓာတ်တော်မွေတော်တို့ကို သံဃာတော်များက ထိန်းသိမ်းစောင့်ရှောက်ထားတော်မူခဲ့ကြပြီး ဘုရားကြီးပြုပြင်နိုင်မည့်အရေးကိုလည်း မျှော်တွေးထောက်ဆနေခဲ့ကြပါသည်။

ရွှေသိမ်တော်ဘုရားကြီးကို ပုဂံအလောင်းစည်သူမင်းကြီး(အေဒီ ၁၁၁၃–၁၁၆၂) တည်ခဲ့သည်ဟု ကျောက်စာသမိုင်းအမှတ်အသားရှိခဲ့ပါသည်။ အင်းဝခေတ်ဒုတိယ မင်းခေါင်မင်း (အေဒီ ၁၄၀၀–၁၄၂၃)က တဖန်ထပ်၍ လုံးတော်ပြည့်ရွှေချပူဇော်ခဲ့သည်ဟုလည်း သိရသည်။ ယခုအခါ၌ ရှေးရှေးက ဘုရားဒါယကာကေရာဇ်အဆက်အနွယ်တို့ ပြတ်တောက်ကုန်ကြပြီဖြစ်၍ လက်ရှိ သာသနာ့ဒါယကာမင်းကေရာဇ်မှာလည်း တစ်ကျွန်းစံခိုက်ဖြစ်နေရကား ဘုရားပြုပြင်ရေးအတွက် အားမကိုးသာ။ ရွှေသိမ်တော်ဘုရားမုခ်ဦးအတွင်းရှိ ရွှေသိမ်တော်ရှေးဆင်းတုရုပ်ပွား

*[၁] လယ်တီဆရာတော်၏ ရူပဒီပနီ။ ၁၂၆၂–ခုနှစ်။ (စာမျက်နှာ–၁၀၃)။

*[၂] လယ်တီဆရာတော်၏ ပတ္တမြားမေတ္တာစာ။ ဂန္ထိရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၇၃)။



မိုးကုတ်သူဌေးကြီးဦးမှတ်



စိုင်ပြင်ရွာ၌ ဦးမှတ်တူး၍လှူခဲ့သောရေကန်





ဒီပဲယင်းမြို့ရွှေသိမ်တော်စေတီတော်နှင့် စေတီတော်အတွင်းရှိရှေးဆင်းကုတော်

တော်ကြီး မှာလည်း ပြုပြင်ရန်ပေါ်လာမည့်ဒကာတို့ကိုစောင့်မျှော်ရင်း ဆိတ်ငြိမ်စွာသီတင်းသုံးနေတော်မူရပါသည်။ သို့ပါ၍ မင်းကျေရာဇ် မြို့ဝန်နယ်ပိုင်တို့ကိုအားမကိုးတော့ဘဲ အရပ်သားထဲမှ ဘောဂသဒ္ဒါ တတ်အားသောပုဂ္ဂိုလ်တစ်ဦးဦးထံမှ အလှူခံပြီးပြုပြင်ကြရလျှင် ကောင်းမည်ဟု စိတ်ကူးခဲ့ကြသည်။

ဤအချိန်တွင် မိုးကုတ်မြို့ သူဌေးကြီးဦးမှတ်အကြောင်းကို ကြားသိရဖူးသူတို့က သတင်းကောင်းပါးလာကြ၏။ ထိုသူဌေးကြီးဦးမှတ်သည် အလွန်ချမ်းသာကြွယ်ဝကြောင်း၊ အဘယ်မျှချမ်းသာသနည်းဆိုပါမူ ငွေကိုရေလိုသုံးစွဲသူတို့ထက်ပိုကာ 'အဖိုးတန်မဏိပတ္တမြားကို စပါးအလားသုံးစွဲနိုင်သည်'ဟုအဆိုရှိကြောင်း၊ သဒ္ဓါတရားဘက်မှာလည်းမီသူမရှိကြောင်း၊ အကယ်၍ မြတ်စွာဘုရားကိုယ်တော်မြတ်ကြီး သက်ရှိထင်ရှားရှိ၍ ဦးမှတ်၏ပစ္စက္ခအကျိုးပေးပုံကိုအကြောင်းပြုပြီး အတိတ်ကမည်သည့်ကုသိုလ်ကောင်းမှုများပြုလုပ်ခဲ့ပုံကို နိဒါန်းဝတ္ထုများဖြင့်ဟောကြားတော်မူပါလျှင် သုတ္တန်တစ်ခုလောက်ပင်ထွက်နိုင်လောက်ကြောင်း ပြောဆိုကြသည်၊ သို့ဖြစ်၍ လယ်တီဆရာတော်ကြီးက ထိုမိုးကုတ်သူဌေးကြီးသည် သာသနာကိုင်းရှိုင်းကွက်၍ ဤရွှေသိမ်တော်ဘုရားကြီးပြုပြင်ရာ၌ ဒါနကောင်းမှုစသည် ပါဝင်ပြုစုရန်တိုက်တွန်းသင့်ကြောင်း–စသည်ဖြင့် တိုက်တွန်းရလျှင် သင့်အံ့ဟု အကြံ ဖြစ်တော်မူပါသည်။

ဒီပဲယင်းမြို့သူမြို့သားများ၊ အထူးသဖြင့် စိုင်ပြင်ရွာသားများက ဦးမှတ်အကြောင်းကို ကြားရုံမျှသာမက ကိုယ်တွေ့လည်းများစွာရှိကြသည်ဖြစ်ရာ စိုင်ပြင်ရွာဇာတိဖြစ်သော လယ်တီတောရဆရာတော်အရှင်ဉာဏသည် ရွှေသိမ်တော်ဘုရားကြီးပြုပြင်ရန်ကိစ္စကို ဦးမှတ်ပါဝင်စေကြောင်း တိုက်တွန်းသော မေတ္တာစာတစ်စောင်ကိုရေးသားပြီး ဦးမှတ်နှင့်သိကျွမ်းပြီးဖြစ်သော မောင်ဩဇာအား အပို့ခိုင်းခဲ့လေဖြစ်သည်။

## ပတ္တမြားဘုရင်ဦးမှတ်

ဒီပဲယင်းမြို့ ရွှေသိမ်တော်ဘုရားပြုပြင်ရန်အတွက် မိုးကုတ်မြို့ ပတ္တမြားသူဌေးကြီးဦးမှတ် (အေဒီ ၁၈၄၀–၁၉၁၆)ထံသို့ လယ်တီဆရာတော်ကြီးရေးသားပေးပို့သောမေတ္တာစာကို ပတ္တမြားမေတ္တာစာဟု ခေါ်ကြပါသည်။ ပတ္တမြားသူဌေးဦးမှတ်ကိုရည်ညွှန်းပြီးရေးသောမေတ္တာစာဖြစ်၍ ခေါ်ခြင်းဖြစ်သည်။

ထိုပတ္တမြားမေတ္တာစာတွင်–

'ဇမ္ဗူပတ်ကုံး၊ မြေအလုံးတွင်၊ စံနှုန်းမဘက်၊ ဝင်းထိန်လက်၊ အမျက်ရတနာ၊ နီလာမျိုးမှန်၊ အဘိုးတန်ပတ္တမြား၊ ဖြစ်ပွားပေါ်ထွန်းရာ၊ မဟာကမ္ဘောဇ တိုင်းများအချုပ်၊ မိုးကုတ်မြို့ဇာတိ၊ မဏိသေဌ္ဌေးကြီးတဦးဟု၊ အထူးပွင့်လင်း၊ သတင်းကြီးစွာ၊ တတိုင်းလုံးသာပေသော၊ ဒါယကာမောင်မှတ်'–

ဟူ၍ သူဌေးဦးမှတ်ကို ချီးကျူးသောစကားများဖြင့် အစချီထားပါသည်။*[၁]

*[၁] လယ်တီဆရာတော်၏ ပတ္တမြားမေတ္တာစာ။ ဂန္ဓီရကဗျာကျမ်း၊ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၇၃)။

ထို့ပြင် ဤမေတ္တာစာ၌ ဦးမှတ်၏ဂုဏ်ကိုပြဆိုရာတွင်– 'သူ့လက်ညှိုးညွှန်ပြရာ၊ သဲမြေထုပထဝပျာသော်မှ၊ ရတနာအတိဖြစ်၍၊ မဏိစစ်ပတ္တမြားကို၊ စပါးလိုသုံးနိုင်သည်'*၁–စသည်ဖြင့် ရေးသားထားလေရာ၊ ထိုမေတ္တာစာကိုဖတ်ရှုရသူက လယ်တီတောရဆရာတော်ကို လောကွတ်ချော်လှချည်လားဟု ဆိုကောင်းဆိုကြပေလိမ့်မည်။

ထိုခေတ်ထိုအခါက သူဌေးဦးမှတ်ကို သိမီလိုက်သူများ၏ပြောပြချက်အရဆိုလျှင် လယ်တီတောရဆရာတော်၏ဖွဲ့နွဲ့မှုသည် အပိုစကားမပါ–ဟုတ်မှန်ရာသာဟု မှတ်ယူပေလိမ့်မည်။ ဦးမှတ်၏အကြောင်းကို ဒီပဲယင်းနယ်၌ ရှေးဦးဆုံးသိရှိသူမှာ ဆယ်ကြီးရွာနေ ဗေဒင်ဆရာကြီးဦးကျော်လှဖြစ်သည်။ ဆရာကြီးဦးကျော်လှသည် လယ်တီဆရာတော်ကြီးငယ်စဉ်အခါက အမည်နာမကင်ပွန်းတပ်ပေးခဲ့သော ဆရာကြီးလည်းဖြစ်သည်။ ထိုဆရာကြီးဦးကျော်လှသည် တစ်ချိန်သောအခါက မိုးကုတ်အရပ်ရှိကျောက်တွင်းများသို့သွားရောက်ကာ ဗေဒင်ဟောပြောခဲ့ဖူး၏။ ထိုစဉ်အခါက ဦးမှတ်သည် အလွန်ဆင်းရဲသောဘဝမှာသာရှိသေး၏။ ဦးမှတ်ဆင်းရဲလိုက်ပုံမှာ အင်္ကျီကိုယ်မှာ မကပ်နိုင်ဘဲ ပေါက်တူးအရိုးကျိုးကလေးနှင့် သူများတွင်းကို အခစားလိုက်တူးနေရချိန်ဖြစ်၏။ ဗေဒင်ဆရာကြီးဦးကျော်လှ မိုးကုတ်ကျောက်တွင်းသို့ရောက်ရှိလာသောအခါ ကျောက်တူးသမားများက ဥဏ်ပူဇော်ခတစ်မတ်စီဖြင့် ဗေဒင်မေးကြ၏။ ဦးမှတ်ခမျာသည် အများနည်းတူ မေးချင်ရှာသော်လည်း ပေးစရာငွေတစ်မတ်မရှိ၍ မမေးဝံ့ဘဲ လူအများနောက်က အသာရပ်၍နေရရှာ၏။ လူရှင်းသော် ဦးကျော်လှက ဦးမှတ်ကိုသနားချစ်ခင်သောကြောင့် 'လာ...ကြည့်ပေးမယ်'ဟု အခမယူဘဲတွက်ချက်ကြည့်၏။ ဦးကျော်လှက 'မင်း...ခုနစ်ရက်အတွင်းသူဌေးဖြစ်လိမ့်မယ်'ဟု ဟောခဲ့၏။ ဦးကျော်လှဟောသည့်အတိုင်း ခုနစ်ရက်အတွင်း ဦးမှတ်တူးနေသောတွင်းမှ ဗျူန်း(မျော)ပေါက်၍ ရေများလျှံကာ ကျောက်များမတူးရဘဲ အလိုလိုထွက်ပေါ်လာ၏။ မြေတစ်ပြင်လုံး ကျောက်များနီနီရဲရဲနှင့်ပြန့်နေ၍ စွန်ငှက်များက အမဲသားတစ်ထင်၍ဝဲကြသည်ဟူ၍ပင် ပြောစမှတ်တွင်ခဲ့သည်။

ဦးမှတ်သည် သူဌေးအဖြစ်သို့ရောက်ပြီး မိမိကိုဟောပြောပေးသော ကျေးဇူးရှင်ဆရာကြီးဦးကျော်လှကို ပူဇော်လိုသောကြောင့် မိုးကုတ်မြို့သို့ကြွခဲ့ပါရန် ပင့်ခေါ်၏။ ဦးကျော်လှသည် မျက်စိရောဂါဖြစ်နေ၍ မိုးကုတ်သို့မသွားနိုင်ပြီဖြစ်ရာ၊ ဦးမှတ်က ထိုခေတ်က ငွေသားဒင်္ဂါးတစ်ထောင်နှင့် ဝတ်စုံတစ်စုံ၊ လက်ဝတ်ရတနာများဖြင့် အပူဇော်လွှတ်လိုက်၏။ ထို့ပြင် ဆရာဦးကျော်လှတို့အရပ်ဒေသတွင် 'ဘာများလိုအပ်သလဲ'ဟုအမေးစေလိုက်ရာ၊ ထိုအခါက ဆယ်ကြီးနှင့် စိုင်ပြင်ရွာတစ်ဝိုက်တွင်အရှားပါးဆုံးမှာ 'ရေ'ဖြစ်၏။

ရှေးက စိုင်ပြင်အပါအဝင် ဒီပဲယင်းတစ်ဝိုက်ကို ရေရှားလွန်း၍ ရေငတ်ဒေသဟုပင်ခေါ်၏။ မိုးခေါင်ရေရှားဒေသဖြစ်၍ တူးမြောင်းကသွယ်ယူမှသာ ရေရသောအရပ်ဖြစ်၏။*၂ မြေကြီးထဲက

*၁ လယ်တီဆရာတော်၏ ပတ္တမြားမေတ္တာစာ။ ဂန္ဓီရကဗျာကျမ်း၊ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၇၇)။

*၂ ချစ်စံဝင်း၏ မြတ်လယ်တီ။ ပန်းမျိုးတစ်ရာစာပေ၊ ရန်ကုန်မြို့။ ၁၉၉၄–ခုနှစ်။ (စာမျက်နှာ–၁၅၃)။

ရေထိုးထွက်လာဖို့ဆိုသည်မှာ ဖြစ်ခဲလှ၏။ သို့ဖြစ်၍ ဦးမှတ်က 'ဘာအလိုရှိသလဲ' ဟုမေးသောအခါ မိမိတို့တပ်တပ်မက်မက်လိုချင်သော ရေကိုတောင်းဆိုရာ ဦးမှတ်က လိုသလောက်ငွေကိုထုတ်ပေးပြီး ကန်များတူးစေခဲ့၏။ ဦးမှတ်က ငွေပံ့ပေး၍တူးကြသော်လည်း ရေရသောရွာဟူ၍မရှိခဲ့။ စိုင်ပြင်ရွာတွင်တူးကာမှ ရေရရှိခဲ့၏။*၁ ရေကန်ဖြစ်ပြီးနောက် ငွေစာရင်းပြုလုပ်ပြီး ပိုသောငွေငါးကျပ်ကို မိုးကုတ်ဦးမှတ်ထံသို့သွားရောက်ပေးပို့ရာ ဦးမှတ်က 'ငွေငါးကျပ်နှင့် ဤမျှဝေးသော ခရီးကိုလာရသလား၊ ရိုးလိုက်ကြတဲ့လူတွေ' ဟူ၍ ချီးကျူးစကားပြောကာ ဆုလာဘ်များစွာကိုပင် ပေးလိုက်ပြန်သည်။*၂

မိုးကုတ်ဒေသသူဒေသသားများကမူ ဦးမှတ်ကို 'ဘုရားဒကာမှတ်' ဟုခေါ်ကြ၏။ဘုရားဒကာမှတ်သည် သက္ကရာဇ်–၁၂၀၃(အေဒီ–၁၈၄၁)ခုနှစ်ဖွားဖြစ်၏။ အသက်(၄၀)အရွယ်၌ ဘုရားဒကာမှတ် မျောပေါက်၍ ကျောက်နီတွေမှာသယ်ယူ၍မကုန်နိုင်သဖြင့် ရှမ်းဆီးသီးပင်၏ဆူးခက်များနှင့် ညအခါဖုံးအုပ်ထားရ၏။ဘုရားဒကာမှတ်၏မျောနေရာမှာ မင်းဘုရားတောင်၏အနောက်ခြေရင်းမှ လျှိုကြီးဖြစ်ကြောင်း ပြောဆိုကြ၏။*၃ ထို့ပြင် မိုးကုတ်မြို့ရှိ ယခုလမ်းများသည် ဘုရားဒကာမှတ် ဦးဆောင်၍ ဖောက်လုပ်ခဲ့သောလမ်းများဖြစ်၍ အင်္ဂလိပ်အစိုးရ၏ဂုဏ်ထူးဆောင်လက်မှတ်၊ ရွှေတံဆိပ်၊ ငွေတံဆိပ်စသည်တို့ကိုလည်းရခဲ့ဖူးသည်။*၄

အင်္ဂလိပ်စာရေးဆရာ အိုး ကော်နာ (V.C. Scott O' Connor) သည် အေဒီ–၁၈၉၀ မှ အေဒီ–၁၈၉၅–ခုနှစ်အတွင်း မြန်မာနိုင်ငံအနှံ့ခရီးထွက်ခဲ့ရာ မန္တလေး၊ အင်းဝ၊ အမရပူရ၊ စစ်ကိုင်း၊ တကောင်း၊ ဗန်းမော်၊ ကောင်းတုံ၊ မိုးကုတ်စသောဒေသများသို့ရောက်ရှိခဲ့ပြီး ထိုခရီးစဉ်များတွင် တွေ့ကြုံရသည်ကို စာအုပ်ကြီးနှစ်အုပ်ရေးသားခဲ့ပါသည်။*၅ ထိုစာအုပ်နှစ်အုပ်တွင် The Silken East စာအုပ်ကြီး၌ မိုးကုတ်မြို့သို့ အိုး ကော်နာရောက်သွားသောအခါ ဘုရားဒကာသူဌေးကြီး ဦးမှတ်နှင့် တွေ့ဆုံခဲ့ရကြောင်း၊ ဘုရားဒကာကြီးသည် အစောင့်အရှောက်အခြွေအရံများနှင့် သလဲပင်, လိမ္မော်ပင်များခြံရံနေသောအဆောက်အအုံကြီးတွင်နေထိုင်ကြောင်း၊ ကျောက်အကဲဖြတ် ကျွမ်းကျင်၍ ချီးကျူးဖွယ်ကောင်းကြောင်း၊ ကျစ်လျစ်ချောမောသော တစ်ဦးတည်းသောသမီး

---

*၁ ထိုစဉ်က ဦးမှတ်တူးပေးခဲ့သောကန်သည် ယခု စိုင်ပြင်ရွာ၊ ငြိမ်းချမ်းရေးရပ်ကွက်၊ အရှေ့ဘက်ခြမ်း၌ရှိ၏။ ပေ–၁၀၀ ပတ်လည်စန့်ကျယ်ဝန်းပြီး ရေးကပင် ဆင်ရုပ်, မြင်းရုပ်, နွားရုပ်, ခြင်္သေ့ရုပ်များဖြင့် အုတ်ရိုးခတ်ထား၏။ ရေးက ဤကန်ကို 'ဦးမှတ်ကန်' ဟုခေါ်ကြ၏။ စိုင်ပြင်ရွာ၌ ရေထွက်ရခြင်းအကြောင်းကို နောင်အခါ 'လယ်တီဆရာတော်ဘုရားကြီး နှစ်ပေါင်းများစွာ ရေလှူခဲ့သောအကျိုးကြောင့်'–ဟူ၍ ပြောဆိုကြသည်။ ဗေဒင်ဆရာကြီး ဦးကျော်လှနေသော ဆယ်ကြီးရွာ တောင်ဘက်တွင်လည်း၊ ဦးမှတ်တူးပေးခဲ့သောကန်ကြီးတစ်ကန် ယခုတိုင်ရှိသေးသည်။

*၂ မုံရွာမြို့ ရတနာပုံရပ်၊ ဆရာဦးစိုးဂေါင် (၂၃–၄–၁၉၇၆) နေ့ ပြောပြချက်ဖြစ်သည်။

*၃ ဒေါ်စောမုံညင်း၏ မြန်မာ့ကျောက်မျက်ရတနာ။ ဟံသာဝတီသတင်းစာအချုပ်ပိုကဏ္ဍမှ။

*၄ ဦးလွင်(ဘီ–အေ)၏ မိုးကုတ်မြို့ပတ္တမြားမြေသမိုင်း။ မန္တလာဘုမ္မိပိဋကတ်ပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၅၀–ပြည့်နှစ်။ (စာမျက်နှာ–၄၆)။

*၅ The Silken East (1904) နှင့် Mandalay and Other Cities of The Past in Burma (1907)–ဟူ၍ ဖြစ်သည်။

ကလေးကို တိုက်တွင်း၌ထားကာ အလွန်တရာအဖိုးတန်သောလက်ဝတ်များ ဆင်မြန်းပေးထားကြောင်း၊ ဘုရားဒကာကြီး၏ နှစ်စဉ်မန္တလေးနန်းတော်သို့သွား၍ ကျောက်သံပတ္တမြားများဘုရင့်ရှေ့တော်အရောက်ပေးဆက်ခဲ့ကြောင်းတို့ကို ဘုရားဒကာကြီးဦးမှတ်၏ခတ်ပုံနှင့်တကွ ရေးသားဖော်ပြထားပါသည်။[*၁] နောင်အခါ မိုးကုတ်မြို့ကုန်သည်များ နိုင်ငံခြားတိုင်းပြည်များသို့ ကျောက်ရောင်းခွင့်ရသောအခါ ဦးမှတ်၌ ပြင်သစ်နိုင်ငံ ပါရီမြို့၌ ကျောက်မျက်ဆိုင်ဖွင့်ကာ ရောင်းချခဲ့ကြောင်းမှတ်သားရပါသည်။[*၂]

အင်္ဂလိပ်လူမျိုး စာရေးဆရာ အိုး ကော်နာက ဦးမှတ်ကို ပတ္တမြားသူဌေးဟုမခေါ်ဘဲ ပတ္တမြားဘုရင် (Ruby King)ဟု ရေးသားဖော်ပြထားပါသည်။[*၃] အထက်၌ပြဆိုခဲ့သော ဦးမှတ်အကြောင်းစကားရပ်များ ထောက်ထားလျှင် လယ်တီဆရာတော်ကြီး၏ပတ္တမြားမေတ္တာစာပါ ဦးမှတ်ကိုချီးကျူးဖွဲ့ဆိုသောစကားရပ်တို့သည် တန်းစေ့ရုံချီးကျူးခြင်းသာဖြစ်ကြောင်း ဆင်ခြင်နိုင်ကြပါလိမ့်မည်။

ပတ္တမြားသူဌေးကြီးဦးမှတ်သည် လယ်တီဆရာတော်ကြီးထံမှပေးပို့သည့် ရွှေသိမ်တော်ဘုရားပြုပြင်ရန်တိုက်တွန်းသောမေတ္တာစာကို စာပို့လာသူ စိုင်ပြင်ရွာသားမောင်သြဇာကို အသံနေအသံထားနှင့်အဖတ်နိုင်းရာ ဖတ်ရွတ်ပြနိုင်သောကြောင့် ဆုငွေတစ်ရာနှင့် ဝတ်စုံတစ်စုံ ဆုချလေ၏။ ဒီပဲယင်းမြို့အရှေ့ ရွှေသိမ်တော်ဘုရားပြုပြင်ရန်အတွက်လည်း ငွေသားတစ်ထောင့်ငါးရာကျပ် ထည့်ဝင်လှူဒါန်းခဲ့၏။ ထိုပြင် ဘုရားပြုပြင်ပြီးပါက ထီးတော်တင်ပေးပါမည် ဟုလည်း ကတိပြုလိုက်ကြောင်းသိရသည်။[*၄] ဤသို့ ဘုရားဒကာမှတ်ခေါ် ပတ္တမြားသူဌေးကြီး ဦးမှတ်၏ အလှူအတန်းရက်ရောပုံကိုတွေ့ကြရသောအခါ အများကချီးကျူးကြသလို၊ လယ်တီ တောရဆရာတော်ကလည်း 'အေးကွာ၊ မိုးကုတ်သူမိုးကုတ်သားတွေဆိုတာ လိုတ,ရ ပြည့်စုံနေကြတာပဲ၊ ဗြဟ္မာပြည်သူပြည်သားတွေပါကွယ်'ဟုလည်းမိန့်တော်မူကြောင်း အမှတ်အသားရှိပါသည်။[*၅]

**မောင်သြဇာကိုဆုံးမသောတေးထပ်များ**

မိုးကုတ်မြို့နေ ဘုရားဒကာကြီးဦးမှတ်ထံသို့ ဒီပရင်းမြို့အရှေ့ ရွှေသိမ်တော်ဘုရားပြုပြင်ရန်အတွက် အလှူခံသောမေတ္တာစာအပို့သွားခဲ့သူ တမန်မောင်သြဇာသည် မိုးကုတ်မြို့သို့ရောက်သောအခါ ဦးမှတ်၏အထောက်အပံ့ဆုတော်များရရှိပြီးနောက် ဇာတိရပ်ရွာစိုင်ပြင်သို့ တော်တော်နှင့်ပြန်မရောက်ဘဲရှိနေသည်။ မောင်သြဇာ၏သတင်းကိုစနည်းနာကြသောအခါ မိုးကုတ်မြို့မှာပင်ပျော်ပါးနေထိုင်ကြောင်း သတင်းကြားကြရ၏။ မိဘဆွေမျိုးသားချင်းတို့က စိုင်ပြင်သို့ပြန်လာရန်

---

*၁ V.C. Scott O' Connor' The Silken East. Hutchinson, London, 1904. Page-785, 787.

*၂ ကိုတင်ရွှေ၏ ပတ္တမြားကျောက်မျက်ရတနာတူးဖော်ခြင်းအကြောင်း(ဆောင်းပါး)။ မန္တလေးသူရိယသတင်းစာ၊ အမျိုးသားနေ့အထူးစာစောင်။ ၁၉၃၆–ခုနှစ်။ (စာမျက်နှာ–၉၅)။

*၃ V.C. Scott O' Connor' The Silken East. Hutchinson & Co., London, 1904. Page-785, 787.

*၄ လယ်တီဆရာတော်၏ ပတ္တမြားမေတ္တာစာ။ ဂန္ဓိရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၈၀)။

*၅ ဤအချက်မှာ ဆရာကြီးဦးလှတင်(ဦးဝဏ္ဏိတ)၏ (၁၅၊ ၃၊ ၁၉၇၉)နေ့ မိန့်ဆိုချက်ဖြစ်သည်။

အခေါ်လွှတ်သောအခါ မောင်ဩဇာက သူဌေးဖြစ်လွယ်ရန် ကျောက်တွင်းတူးစီးပွားရှာနေကြောင်း၊ ပြန်မလာနိုင်သေးကြောင်းစသည်ဖြင့် အကြောင်းပြန်ကြားခဲ့သည်။ ဤသို့ အသက်လေးဆယ် ကျော်ကာမှ ကာမဂုဏ်စည်းစိမ်ခံစားချင်၊ စီးပွားဥစ္စာရချင်ဖြစ်နေသော မောင်ဩဇာ၏သတင်းကို လယ်တီဆရာတော်ကြားသိတော်မူသောအခါ တပည့်ရင်းမောင်ဩဇာကို အောက်ဖော်ပြပါ တေးထပ်ကိုရေးသား၍ သတိပေးဆုံးမတော်မူခဲ့ပါသည်။

(၁) စီးပွားရှာအလုပ်နှင့်နေ့ပုပ်မခံရန်သတိပေးတေးထပ်။

လောကတွင် ပြည့်စုံမှု(သမ္ပတ္တိ)ဟူရာ၌ ဗုဒ္ဓစာပေကျမ်းဂန်အလိုအားဖြင့် ဘဝနှင့်ပြည့်စုံမှု (ဘဝသမ္ပတ္တိ)နှင့် ပစ္စည်းဥစ္စာတို့၌ပြည့်စုံမှု(ဘောဂသမ္ပတ္တိ)ဟူ၍ ပြည့်စုံမှုကို နှစ်ခုခွဲဝေဟောထား၏။ လူ့ဘဝ,နတ်ဘဝစသော ဘဝကောင်းများရရှိခြင်းသည် ဘဝသမ္ပတ္တိ(ခေါ်)ဘဝ၏ပြည့်စုံမှုဖြစ်၏။ ထိုလူ့ဘဝစသော သုဂတိဘဝကိုရသောအခါ၌ ဘောဂသမ္ပတ္တိခေါ် ပစ္စည်းဥစ္စာကြွယ်ဝပြည့်စုံမှုက လိုအပ်လာပါသည်။ 'ဥစ္စာချမ်းသာသောကြောင့် မည်မျှည့်ဖျင်းသူဖြစ်ပါစေ လူတော်ပါကလား' ဟု အခေါ်ခံရတတ်၏။ 'ဥစ္စာမရှိသည့်အတွက် အလုံးစုံပုပ်ရ၏' စသည်ဖြင့် ကျမ်းဂန်တို့၌ပြပေရာ ဥစ္စာနေသည် လောကအတွက်အရေးပါ၏။ လောကထွက်မြောက်လိုသူတို့မှာပင် လူ့ဝတ်ကြောင် နှင့် ဒါန, သီလ, ဘာဝနာ သုံးဖြာသောတရားကိုဆောင်ရွက်လိုသော် ဓနဥစ္စာသည်အရေးပါလာ ပြန်၏။

အရာရာ၌အရေးပါလှသော ဘောဂသမ္ပတ္တိခေါ် စည်းစိမ်ဥစ္စာပြည့်စုံရန်အတွက် ကြိုးပမ်း အားထုတ်ရာတွင် အချိန်မရွေးအားထုတ်နိုင်သည်မှန်သော်လည်း ရှေးရှေးသောပညာရှိကြီးများ ကမူ အရွယ်လေးပါးကိုလိုက်၍ ကာလလေးတန်နှင့်လုပ်ငန်းလေးရပ်ကို ငန်းသတ်ပေး၏။ ပဌမေ နိဗ္ဗိတံ သိပ္ပံ-ပထမအရွယ်၌ မိမိ၏အသက်မွေးဝမ်းကြောင်းဖို့ရာ ပညာတစ်ခုခုကိုရှာဖွေရမည်- ဟူ၏။ ဒုတိယေ နိဗ္ဗိတံ ဓနံ-ဒုတိယအရွယ်၌ ထိုအတတ်ပညာဖြင့် အရင်းအနှီးပြုပြီး ဥစ္စာပစ္စည်းကို ရှာဖွေရမည်။ တတိယေ နိဗ္ဗိတံ ပုညံ-တတိယအရွယ်၌ ထိုဥစ္စာချမ်းသာတို့ကို အသုံးချမှီဝဲပြီး သံသရာဘဝအကူးသို့ကူးမြောက်ဖို့ရန် ဒါန,သီလ,ဘာဝနာအလုပ်ကို အားထုတ်ကြိုးပမ်းရမည်။ စတုတ္ထေ ကိံ ကရိဿတိ= စတုတ္ထအရွယ် ဇရာထောင်း၍ ပျော့ပျောင်းယိုယွင်း အိုမင်းသော ကာလ၌မူကား မည်သည့်ကိစ္စကိုမျှဆောင်ရွက်နိုင်တော့မည်မဟုတ်။ *၁-ဟူ၍ဖြစ်ပါသည်။

ဤသို့လျှင် မိမိ၏အသက်အရွယ်နှင့် ပြုသင့်သောအချိန်ကာလတို့ကို ပိုင်းခြားဝေဖန် ကြံစည်ပြုလုပ်သင့်ရပါလျက် မောင်ဩဇာသည် စီးပွားရှာချိန်လွန်ပြီးဖြစ်သော ဒုတိယအရွယ် အဆုံး, တတိယအရွယ်အရောက်တွင် ကျောက်တွင်းတူး၍ သူဌေးဖြစ်ကြံဦးမည်ဆိုသည်ကား နေဝင်မှစပါးလှန်း၊ မိုးလွန်မှထွန်ချ၊ နွားအိုကြီးအမော့သင်သလိုဖြစ်နေပေတော့မည်ဟု မောင် ဩဇာ ခပ်နာနာ 'နွားအို'နှင့်နှိုင်းယှဉ်ကာ လယ်တီတောရဆရာတော် ဆုံးမရေးသားအပ်သော တေးထပ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

---

*၁ လောကနီတိပါဠိ၊ (ဂါထာအမှတ်-၁၆)။

ပစ္စည်းရှာ အလုပ်နှင့်၊ နေ့ပုပ်လို့ ရက်ဟုံ၊
နှမြောလို့ အသက်ကုန်တယ်၊ တွယ်ပုံဖြင့် မကောင်း။
ခုလိုနှင့် သံသာဘွေမှာ၊ ခန္ဓာတွေများကဲ့ စတောင်း။
သက်မွေးမှု စခန်းပိုအောင်၊ ဝမ်းကိုသာ နင်ကျောင်း။
လေးဆယ်ကျော် အရွယ်နှောင်းခါမှ၊
သူကြွယ်လောင်းလုပ်ချင်။
မိုးကုန်ပြီ ထွန်မချချင်နှင့်၊ ရွံ့စရာ မှားဖို့ဖြစ်အင်။
နွားအိုကြီး အမော့သင်သလို၊ မလျှော့လျှင် ဘဝဆုံးရှာတော့၊
အစတုံး နင့်အဆင်၊ လွဲဖို့သာ ပြင်၊
တရားသို့ မသက်ဝင်လျှင်၊ အခက်နင်ကြုံတွေ့ဖို့လေး။ ။*၁

(၂) မိဘဆရာသမားများကိုအတိုက်အခံမလုပ်သင့်ကြောင်းသတိပေးတေးထပ်။

'အပ္ပဿုတော သုတံ အပ္ပံ၊ ဗဟုံ မညတိ မာနဝါ= အသိဉာဏ်နည်းပါးသူသည် မိမိသိသမျှကလေးကို အများကြီးထင်၍ မာန်တက်နေသည်'ဟူသော လောကီဆရာတို့၏သြဝါဒစကားအတိုင်း*၂ မောင်သြဇာသည်လည်း မိမိသိကျွမ်းသမျှ တတ်အားသမျှ အသိပညာကလေးဖြင့် အကြီးအကျယ်မာန်တက်နေ၏။ စည်းစိမ်,အသိပညာစသည်တို့ ပြည့်စုံလာသော်မှ မာန်မတက်သည့်ပုဂ္ဂိုလ်ကိုသာ ပညာရှိအစစ်ဥစ္စာရှင်အစစ် (=ဝိဝရေယျ မာနထဒ္ဓေါ၊ ပဏ္ဍိတော သော ပဝုစ္စတိ)ဟု ဆုံးမထားသော မဟာရဟနီတိသြဝါဒ*၃ တို့ကို မောင်သြဇာ နလုံးမသွင်းနိုင်ပါလေ။ သို့ပါ၍ မိဘဆရာသမားကိုအာခံ, မာန်လုပ်၊ မိဘဆရာသမားတို့၏အရိပ်အောက်မှ ရုန်းကာ တစ်တောတစ်ပင် တစ်တိုင်တစ်စင်ထောင်ဖို့ကြိုးစားခဲ့သည်။ မိသော,ဘသော နားမလည်၊ ငါတကော ကောဖို့ ကြံစည်သည်။ မတောင့်တသင့်သောအရာ မကြံစည်သင့်သောအရာကို ကြံစည်တောင့်တသည်ဖြစ်၍ ရှားတောငှက်ကို လက်ပံတောနေသောငှက်က တုပယှဉ်ပြိုင်ပုံနှင့်တူနေ၏။ ကိုယ့်အခြေကိုယ့်အနေ ကိုယ့်ပမာဏကိုမချိန်ဆဲချိန်ဘဲ မြင့်မိုရ်ကို ဆီးသီးစေ့နှင့်ကျောက်သောသူကဲ့သို့ မိဘဆရာသမားတို့အား အာခံပြစ်မှားမှုကြောင့် မောင်သြဇာ ပျက်စီးမည့်အရေးကို ကြိုတင်ရှုမျှော်ကာ လယ်တီဆရာတော်က သတိပေးဆုံးမတော်မူခဲ့သော တေးထပ်တစ်ပုဒ်မှာ ဤသို့ဖြစ်ပြန်ပါသည်။

မတူတန် တဘက်က၊ မှုအချက် မှားရန်။
လက်ပန်မြို့ ဌာနစံယေ်၊ အာကမာန် ပိတ်ဖုံး။
ရှားတောငှက် ဂနိုင်စံကို၊ မပြိုင်တန် သင်းပြိုင်လို့ရှုံး။

*၁ လယ်တီဆရာတော်၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆-ခုနှစ်။ (စာမျက်နှာ-၁၁၇)။

*၂ လောကနီတိဂါထာပါဌ်။ (ဂါထာအမှတ်-၁၅)။

*၃ မဟာရဟနီတိပါဌ်။ (ဂါထာအမှတ်-၃၃)။

ခုလောက လူရှင်၊ လူအစဉ် လက်သုံး၊
လေက်ပန်ငှက်ထုံး၊ တသက်လုံး စွဲမှီ။ ။
ဆရာ အစ္စာစော၊ ငါသကော ကောကြရမကြည်။
မိသောဘသော နားမလည်တယ်၊
အသားအရည် သူက,ကြီးလို့၊
အိုးသီးအိမ်သီး တဂုဏ်တသိရ် ခွဲတဲ့ရမှမြိန်။
ကိုယ့်ပမာဏ နှိုင်းမချိန်တယ်၊
အနက်အတိမ် ထောက်ထားပြီဘုပလေး။ ။*၁

**(၃) အခွင့်သာတုန်း ကာမဂုဏ်ဝဲ့နှောင်မှအလွတ်ရုန်းရန်သတိပေးသောတေးထပ်။**

သတ္တဝါမှန်သမျှ အနမတဂ္ဂသံသရာဘဝများစွာတို့တွင် နိဗ္ဗာန်ချမ်းသာမှတစ်ပါး အခြားအခြားသော ချမ်းသာသုခအမျိုးမျိုးကို ခံစားစံစားဖူးကြပြီးဖြစ်သည်။ စကြဝတေးမင်း၊ သိကြားမင်းစသည်လည်း ဖြစ်ခဲ့ဖူးကြပြီ။ ထိုလောကီစည်းစိမ်ကာမဂုဏ်စည်းစိမ်ဆိုသည်မှာ ဘဝအဆက်ဆက် ပြောင်းရွှေ့ခံစားပါသော်လည်း အမဲရိုးပမာ ကိုက်ဖဲ့ရရုံမျှဖြစ်၍ ဝလင်မည်ကားမဟုတ်။ ကာမဂုဏ်ဟူသည် နယ်ပယ်အလွန်ကျယ်ဝန်း၏။ နယ်ပယ်ကျယ်ဝန်းသည်ဆိုရာ၌ အချို့ကခြွေရံသင်းပင်းနှင့် စားကောင်းသောက်ဖွယ်ကိုစားပြီး အိပ်ရာကောင်း မွေ့ယာကောင်းမှာ ငြိမ့်ငြောင်းသော တေးသံကိုနားဆင်နေရသည်ကိုမှ ကာမဂုဏ်ဟုထင်ကြ၏။ အချို့ကား တဲအိုတဲပျက်ကလေးကိုမှပင် ကာမဂုဏ်စည်းစိမ်ဟုထင်၏။ အချို့က ထမီစုတ်,ပုဆိုးစုတ်,ပေါက်တူးကျိုးအပဲ့ကိုပင် စည်းစိမ်တစ်ခုသဖွယ်တွယ်တာ၍ သံယောဇဉ်မပြတ်နိုင်။ သို့ပါ၍ ထိုထိုသောကာမဂုဏ်တို့၏အပြစ် ဘဝတို့၏အပြစ် သံသရာတို့၏အပြစ်ကို နစ်နစ်နောနောလေ့လာပြီးလျှင် ထိုထိုသောကာမဂုဏ်, ဘဝစသည်တို့မှ လွတ်မြောက်စေရန်အတွက် ကြိုးစားအားထုတ်သင့်လှသည်။ အဘယ့်ကြောင့် ဘဝအဖုံဖုံတို့မှလွတ်မြောက်အောင်ကြိုးစားဖို့ အင်တိုက်အားတိုက်တွန်းထိုးပြောဆိုနေရပါသနည်းဆိုလျှင် ယခုလက်ငင်းကြုံနေရသောအခါသမယသည် မဂ်,ဖိုလ်ကိုရနိုင်ခွင့်ရှိသည့် ဗုဒ္ဓုပ္ပါဒနဝမခေတ်အခါနှင့် ကြုံကြိုက်နေသောကြောင့်ပင်ဖြစ်သည်။

ဘုရားပွင့်ငြားသော်လည်း– (၁) ငရဲ၌ရောက်နေလျှင်၊ (၂) တိရစ္ဆာန်ဖြစ်နေလျှင်၊ (၃) ပြိတ္တာ အသူရကာယ်ဖြစ်နေလျှင်၊ (၄) အသညတ်ပြဟ္မာ,အရူပပြဟ္မာကြီးတွေဖြစ်နေလျှင်၊ (၅) သာသနာနှင့်ဝေးသော ပစ္စန္တ ရာစ်အရပ်၌ဖြစ်နေရလျှင်၊ (၆) မိစ္ဆာဒိဋ္ဌိဖြစ်ကာ အယူတစ်ပါးကို ယူမှားနေမိခဲ့လျှင်၊ (၇) တရားနာနှင့်ကြုံသော်လည်း အတီးအတ သုဂတိအဟိတ်,ဒွိဟိတ်ပုဂ္ဂိုလ်ဖြစ်နေလျှင်၊ (၈) တိဟိတ်ပုဂ္ဂိုလ်ဖြစ်ငြားလည်း အာဠာရ, ဥဒကတို့,ကဲ့သို့ တရားစစ်နှင့်ကပ်၍လွဲခဲ့ရလျှင်– ဟူသော ရှစ်ဌာနခေါ် အက္ခဏ ရှစ်မျိုး၊ ထိုအက္ခဏ ရှစ်မျိုးမှလွတ်၍ မဂ်ဖိုလ်ရနိုင်ခွင့်ရှိသည့် ယခုလို နဝမကာလအခါကောင်းနှင့်တွေ့ကြုံရသည်ကို 'အခွင့်သာခိုက်' ဟုဆိုပေသည်။ တစ်နည်း–

---

*၁ လယ်တီဆရာတော်၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၁၁၅)။

မဂ်,ဖိုလ်,နိဗ္ဗာန်ရနိုင်ဆဲသဖြင့် 'အခွင့်သာဆဲ' ဟုလည်းဆိုပေသည်။ တစ်နည်း–မဂ်,ဖိုလ်,နိဗ္ဗာန်ရနိုင်တုန်းသော အခါအခွင့်ဖြစ်၍ 'အခွင့်သာတုန်း' ဟုလည်းဆိုပေသည်။

ဤသို့လျှင် ဗုဒ္ဓုပ္ပါဒဒုလ္လဘဟုဆိုသော နဝမကာလခေတ်ကောင်းနှင့်တွေ့ကြုံနေရသော အခွင့်သာခိုက်တွင် ဘုရားရဟန္တာတို့လျှောက်လှမ်းရာ နိဗ္ဗာန်ရွှေပြည်သို့ လှမ်းလိုက်ပါလော့။ နဝမကာလခေတ်ကောင်းနှင့်ကြုံကြိုက်နေတုန်း အခွင့်သာဆဲတွင် မဂ်ဖိုလ်နိဗ္ဗာန်ကို ယခုဘဝမှာပင် မျက်မှောက်ပြုနိုင်ရန် အောက်ထစ်ဆုံး တစ်မဂ်တစ်ဖိုလ်ကိုမျက်မှောက်ပြုနိုင်ရန် အားခဲ၍ ကြိုးစားပါလော့။ နဝမကာလခေတ်ကောင်းနှင့်ကြုံဆုံသဖြင့် အခွင့်သာတုန်းတွင် ကိလေသာဝဋ်နှောင်မှ အလွတ်ရုန်းထွက်ပါလောဟုတိုက်တွန်းသောသဘောအားဖြင့် အောက်ပါတေးထပ်ကို လယ်တီတောရဆရာတော်ရေးစပ်ပြီး တပည့်မောင်ဩဇာထံ ပေးပို့ခဲ့ပါသည်။

ငါးအာရုံ ဘင်အစု၊ ခင်မူနှင့် နေ့ကုန်၊
နင်ယခု မေ့ပုံလို၊ တွေ့မကြုံစခန်း။
ပါယ်လေးဝ သောကဘုံမှာ၊ မျောရရုံ ရှိတော့ခမန်း။
အောက်အဝီစိ သောင်းအငူမှာ၊ ခေါင်းမပြူစတမ်း။
နှစ်အရှည် နစ်မည့်လမ်းကိုလ၊ နင်မျှော်စမ်း နင့်ကိုယ်။
ဒေသနာ ထင်အလင်းရယ်နှင့်၊ နင်အဖျင်း ပိုထက်သာပို။
သည်လောဘ စရိုက်အိုကို၊ မလိုက်လို ရှောင်ပစ်လို့၊
နောင်အသစ် တကယ်ပြင်လျှင်၊ ကောင်းဖို့အစဉ်။
အခွင့်သာခိုက်က,မ၊ မလိုက်ချင်လျှင်၊ အမိုက်နင့်ပြင် ရှိသေးလေလိမ့်လား၊
အခွင့်သာဆဲက,မ မခဲချင်လျှင်၊ အလွဲနင့်ပြင် ရှိသေးလေလိမ့်လား၊
အခွင့်သာတုန်းက,မ၊ မရုန်းချင်လျှင်၊ အရူးနင့်ပြင် ရှိသေးလေလိမ့်လား။ ။*၁

**ဥပသမ္ပဒ၊ အဋ္ဌသမောဓာန၊ သုဒ္ဓန္တ နှင့် မဟာလယ်တီပဗ္ဗာဇနီယကမ္မဝါစာများ**

ကမ္မဝါစာ–ဟူသည် ဝိနည်းကံဆောင်သည့်အခါ သံဃာတော်အရှင်မြတ်များသည် အများသဘောတူညီချက်ရယူရန် ရွတ်ဖတ်ရသောပါဠိစာသားများဖြစ်သည်။ 'ကမ္မဝါ'–ဟုလည်း အတိုခေါ်ကြ၏။ ကမ္မဝါစာနှင့်ကမ္မဝါ အတူတူဖြစ်သည်။ ရဟန်းသံဃာများသည် ဝိနည်းကံဆောင်ကြသည့်အခါ ကမ္မဝါစာကိုရွတ်ဖတ်၍ အများသဘောတူဆုံးဖြတ်ကြရပါသည်။

ဝိနည်းကံပြုရာကိုလိုက်၍ ကမ္မဝါစာအမျိုးမျိုးရှိ၏။ ဥပမာ– (၁) ရဟန်းခံရန် ဥပသမ္ပဒကမ္မဝါစာ၊ (၂) ရဟန်းလောင်းအများ ရဟန်းခံရန် ဒွန္ဒဥပသမ္ပဒကမ္မဝါစာ၊ (၃) ဥပုသ်ကံပြုရန် ဥပေါသထကမ္မဝါ။ (၄) ပဝါရဏာကံပြုရန် ပဝါရဏာ၊ (၅) ကထိန်ခင်းရန် ကထိနတ္ထာရ၊ (၆) ကထိန်နုတ်ရန် ကထိနုဒ္ဓါရ၊ (၇) သိမ်နုတ်ရန် သီမာသမူဟနန၊ (၈) သိမ်သမုတ်ရန်

*၁ လယ်တီဆရာတော်၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၁၁၄)။

သီမာသမ္မုတိ၊ (၉) ဥပုသ်အိမ်သမုတ်ရန် ဥပေါသထာဂါရသမ္မုတိ၊ (၁၀) ဥပုသ်အိမ်နုတ်ရန် ဥပေါသထာဂါရသမူဟနန၊ (၁၁) ကုဋိမြေနေရာကြားရန် ကုဋိဝတ္ထုဒေသနာ၊ (၁၂) ကျောင်းမြေနေရာကြားရန် ဝိဟာရဝတ္ထုဒေသနာ၊ (၁၃) အပ်သောကုဋိသမုတ်ရန် ကပ္ပိယကုဋိသမ္မုတိ၊ (၁၄) သပိတ်မှောက်ရန် ပတ္တနိက္ကုဇ္ဇန၊ (၁၅) သပိတ်လှန်ရန် ပတ္တုက္ကုဇ္ဇန၊ (၁၆) မဖုံးလွှမ်းသောအာပတ်အတွက် ပရိဝါသ်စသည်ပေးရန် ပဋိစ္ဆန္နဝတ်၊ (၁၈) ဖုံးလွှမ်းသောအာပတ်အတွက် ပရိဝါသ်စသည်ပေးရန် မိဿကသမောဓာနဝတ်၊ (၁၉) ဖုံးလွှမ်းသောအာပတ်အပိုင်းအခြားဖြင့် ပရိဝါသ်စသည်ပေးရန် အဂ္ဃသမောဓာနဝတ်၊ (၂၀) အာပတ်ဖုံးလွှမ်းသောကာလကိုမသိသောအခါ စင်ကြယ်ရန် ပရိဝါသ်စသည်ပေးရန် သုဒ္ဓန္တဝတ်၊ (၂၁) အန္တရာယ်ကင်းအမိန့်တော်ပြန်တမ်း အန္တရာယသမူဟနနကမ္မဝါစာ–စသည်ဖြင့် အသုံးများသောကမ္မဝါစာ များစွာရှိလေသည်။[*၁] ထိုကမ္မဝါစာများစွာတွင် ဝိနည်းကံ ကိုးခုဆောင်ရန်အတွက် ကမ္မဝါ ၉–ခုပါဝင်သောကမ္မဝါကို '၉–ခဏ်းကမ္မဝါဟုလည်းကောင်း'၊ ဝိနည်းကံ တစ်ဆယ့်ခုနစ်ခုဆောင်ရန် '၁၇–ခဏ်းကမ္မဝါဟုလည်းကောင်း'၊ ဝိနည်းကံ နှစ်ဆယ့်တစ်ခုဆောင်ရန် '၂၁–ခဏ်းကမ္မဝါဟုလည်းကောင်း' ခေါ်တွင်ကြပါသည်။ ဘေးအန္တရာယ်ကင်းစေရန်စီစဉ်ထားသော အန္တရာယ်ကင်း ပဗ္ဗာဇနီယကမ္မဝါစာမျိုးလည်းရှိပါသေးသည်။[*၂]

လယ်တီဆရာတော်ကြီးသည် သာသနာတော်အကျိုးအတွက် မိမိ၏ပင်ပန်းမှုကို ပမာဏမပြုဘဲ ကမ္မဝါစာအမျိုးမျိုးကိုစီစဉ်တော်မူခဲ့ပါသည်။ ထိုကမ္မဝါစာများတို့တွင် ရဟန်းခံရန် ဥပသမ္ပဒကမ္မဝါ၊[*၃] ရဟန်းလောင်းနှစ်ပါး,သုံးပါး တစ်ပေါင်းတည်းပြု၍ ရဟန်းခံရန်အတွက် ဥပသမ္ပဒ–ဒွန်ကမ္မဝါ၊[*၄] ဥပသမ္ပဒဗဟုဝုစ်ကမ္မဝါ၊[*၅] အမှုဝတ်သားတစ်ပါးအတွက် အဂ္ဃသမောဓာန်ကမ္မဝါ၊[*၆] အမှုဝတ်သားနှစ်ပါး,သုံးပါးအတွက် ဒွန်ပြု၍ဖတ်ရန် အဂ္ဃသမောဓာန ဒွန္ဒကမ္မဝါ၊[*၇] အမှုဝတ်သားနှစ်ပါး,သုံးပါးအတွက် ဗဟုဝုစ်ဖတ်ရန် အဂ္ဃသမောဓာန ဗဟုဝစနကမ္မဝါ၊[*၈] သုဒ္ဓန္တ ကမ္မဝါ၊[*၉]

---

[*၁] မြန်မာ့စွယ်စုံကျမ်း၊ အတွဲ–၁။ ၁၉၇၁–ခုနှစ်။ (စာမျက်နှာ–၅၃၁)။

[*၂] မင်းကွန်းတိပိဋကဓရဆရာတော်ကြီးစီရင်သော ကမ္မဝါစာမှာ (၃၇)ခန်းကမ္မဝါစာဖြစ်သည်။

[*၃] ဤဥပသမ္ပဒကမ္မဝါကို လယ်တီဆရာတော်ကြီး၏ ကမ္မဝါဒီပနီကျမ်း။ ပတ္တမြားပဒေသာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၃၅–ခုနှစ်။ (စာမျက်နှာ–၁၁)၌ရှုပါ။

[*၄] ဤဥပသမ္ပဒ–ဒွန်ကမ္မဝါကို လယ်တီဆရာတော်ကြီး၏ ကမ္မဝါဒီပနီကျမ်း။ (စာမျက်နှာ–၂၇)၌ရှုပါ။

[*၅] ဤဥပသမ္ပဒဗဟုဝုစ်ကမ္မဝါကို လယ်တီဆရာတော်ကြီး၏ကမ္မဝါဒီပနီကျမ်း။ ၁၃၃၅–ခုနှစ်။ (စာမျက်နှာ–၄၃)၌ရှုပါ။

[*၆] ဤအဂ္ဃသမောဓာန်ကမ္မဝါကို လယ်တီဆရာတော်ကြီး၏ကမ္မဝါဒီပနီကျမ်း။ ၁၃၃၅–ခုနှစ်။ (စာမျက်နှာ–၄၅)၌ရှုပါ။

[*၇] ဤကမ္မဝါကို ၁၂၅၆–ခုနှစ်၊ ကဆုန်လဆန်း ၁၄–ရက် (၁၇၊ ၅၊ ၁၈၉၄)မွန်းတည့်ချိန်၌ရေးပြီးသည်။ အဂ္ဃသမောဓာနဒွန္ဒကမ္မဝါကို လယ်တီဆရာတော်ကြီး၏ကမ္မဝါဒီပနီကျမ်း။ ၁၃၃၅–ခုနှစ်။ (စာမျက်နှာ–၅၅)၌ရှုပါ။

[*၈] ဤအဂ္ဃသမောဓာန ဗဟုဝစနကမ္မဝါကို လယ်တီဆရာတော်ကြီး၏ကမ္မဝါဒီပနီကျမ်း။ ၁၃၃၅–ခုနှစ်။ (စာမျက်နှာ–၆၃)၌ရှုပါ။

[*၉] ဤကမ္မဝါကို ၁၂၅၆–ခုနှစ်၊ ကဆုန်လပြည့်ကျော် ၁–ရက်(၁၉၊ ၅၊ ၁၈၉၄)တွင်ရေးပြီးသည်။ ဤသုဒ္ဓန္တ ကမ္မဝါကို လယ်တီဆရာတော်ကြီး၏ကမ္မဝါဒီပနီကျမ်း။ ၁၃၃၅–ခုနှစ်။ (စာမျက်နှာ–၇၀)၌ရှုပါ။

သုဒ္ဓန္တဒွန္ဒကမ္မဝါ၊[*၁] ဒွေတယောဝတ္တုကာသုဒ္ဓန္တဗဟုဝုစ်ကမ္မဝါ၊[*၂] ကထိနကမ္မဝါ[*၃] –စသည်တို့ဖြစ်ကြသည်။ ဤကမ္မဝါစာတို့ကို လယ်တီဆရာတော်ကြီးသည် မုံရွာမြို့ လယ်တီတောရတိုက်အတွင်း သက္ကရာဇ် ၁၂၅၆–ခုနှစ် နှစ်ဆန်းစအခါ(အေဒီ ၁၈၉၄–ခုနှစ်၊ မေလ)တွင် ပြုစုတော်မူခဲ့ခြင်းဖြစ်ပါသည်။

ကမ္မဝါစာကိုပြုလုပ်ကြရာ၌ ရှေးခေတ်အခါက ပေပေါ်တွင်ရေးလေ့ရှိကြပါသည်။ အချို့က ကြေးပြား၊ ဆင်စွယ်၊ ပျဉ်သစ်သားကိုသရိုးကိုင်၍ စသည်ဖြင့်လည်း ရေးကြပါသည်။ အချို့ သဒ္ဓါတရားထက်သန်၍ တတ်နိုင်သူများကမူ ရွှေပြားပေါ်တွင်လည်းရေး၏။ ကြေးပြားပေါ်လည်းရေး၏။ ဆင်စွယ်ပေါ်မှာရေးသောကမ္မဝါပင်ရှိသေး၏။ ဝတ်လဲကမ္မဝါ–ဟုရှိသေး၏။ ဘုရင့်ဝတ်လဲတော်[*၄] ပုဆိုးစသည်ကိုမီးရှို့ပြာချပြီး သစ်စေးနှင့်ရောပြီး သစ်ဆုံတွင်ထောင်းထု၍ရသော သားရိုးဖြင့် ပြုလုပ်ထားသောကမ္မဝါကို 'ဝတ်လဲကမ္မဝါ'ဟုခေါ်၏။[*၅]

ကမ္မဝါတွင် စာရေးသားကြရာတွင်လည်း ရှေးခေတ်ကမူ မန်ကျည်းစေ့သဏ္ဌာန် လေးထောင့်အက္ခရာပုံရေးထားပါက ထိုကမ္မဝါမျိုးကို မန်ကျည်းစေ့ကမ္မဝါဟုခေါ်ဆို၏။[*၆] အချို့လည်း ရိုးရိုးအက္ခရာဖြင့်သာ ရေးကြပါသည်။ နောက်ပိုင်း၌ ပုံနှိပ်မူကမ္မဝါများပင်ပေါ်ထွက်ခဲ့ပါသည်။[*၇]

လယ်တီဆရာတော်ကြီးကမူ 'သားရိုးတို့၌ရွှေချထားသော ဝတ်လဲကမ္မဝါကြီးများသည် ရွှေ တဝင်းဝင်း ပြောင်ပြောင်လက်လက်ရှိသည့်အတွက် မကောင်းဆိုးဝါးများကို ချောက်ထုတ်ဖယ်ရှားသည်နှင့်တူ၍ အန္တရာယ်ကင်းရွတ်ဆိုသော်အသုံးပြုကြ'ဟု မှာကြားတော်မူလေ့ရှိပါသည်။ လယ်တီဆရာတော်ကြီးကိုယ်တော်တိုင်ကမူ ဦးစံပိန်–ဒေါ်မြတို့လှူဒါန်းသော မန်ကျည်းစေ့အက္ခရာပါ ဆင်စွယ်ကမ္မဝါကိုအမြဲဆောင်တော်မူပါသည်။[*၈]

---

[*၁] ဤကမ္မဝါကို သက္ကရာဇ် ၁၂၅၆–ခုနှစ်၊ ကဆုန်လ(အေဒီ ၁၈၉၄–ခုနှစ်၊မေလ)တွင်ရေးပြီးသည်။ သုဒ္ဓန္တဒွန္ဒကမ္မဝါကို လယ်တီဆရာတော်ကြီး၏ ကမ္မဝါဒီပနီကျမ်း။ ၁၃၃၅–ခုနှစ်။ (စာမျက်နှာ–၇၈)၌ရှုပါ။

[*၂] ဤကမ္မဝါကို သက္ကရာဇ် ၁၂၅၆–ခုနှစ်၊ ကဆုန်လ(အေဒီ ၁၈၉၄–ခုနှစ်၊မေလ)တွင်ရေးပြီးသည်။ ဤသုဒ္ဓန္တဗဟုဝုစ်ကမ္မဝါကို လယ်တီဆရာတော်ကြီး၏ ကမ္မဝါဒီပနီကျမ်း။ ၁၃၃၅–ခုနှစ်။ (စာမျက်နှာ–၈၆)၌ရှုပါ။

[*၃] ကထိနကမ္မဝါကို လယ်တီဆရာတော်ကြီး၏ ကမ္မဝါဒီပနီကျမ်း။ ၁၃၃၅–ခုနှစ်။ (စာမျက်နှာ–၉၂)၌ရှုပါ။

[*၄] နောင် မိဘများ၏အဝတ်အစား၊ ဆရာသမား၏အရိုးပြာတို့ဖြင့်လည်းပြုလုပ်ကြသည်။

[*၅] ဦးညွန့်မောင်၏ မန်ကျည်းစေ့ကမ္မဝါပန်းအက္ခရာ။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၂၀၀၀–ပြည့်နှစ်။ (စာမျက်နှာ ၃၆–၄၃)။

[*၆] မန်ကျည်းစေ့အက္ခရာဖြင့်ရေးထားသဖြင့် ထိုကမ္မဝါကို မြန်မာစာဖတ်တတ်သူတိုင်း မဖတ်နိုင်။ လျှို့ဝှက်စာဆန်နေသည်။ ဤသို့ လျှို့ဝှက်သဘောဖြင့်ရေးရခြင်းမှာ အင်းဝခေတ် သက္ကရာဇ်–၈၈၈(အေဒီ–၁၅၂၆)ခုနှစ် သိုဟန်ဘွားလက်ထက် ပိဋကတ်များကိုမီးတိုက်ရာ ကမ္မဝါကျန်လျှင် သံဃာဖြစ်နိုင်သေး၏ဟူသော အယူအဆဖြင့် ကမ္မဝါမှန်းမသိရအောင် မန်ကျည်းစေ့အက္ခရာဖြင့်ရေးသားခဲ့ရကြောင်း အမှတ်အသားရှိလေသည်။ အရှင်လက္ခဏ၏ ကျိုက္ကစံဆံတော်ရှင်စေတီတော်သမိုင်း။ အေးအေးစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ? –ခုနှစ်။ (စာမျက်နှာ–၇၅)။

[*၇] သက္ကရာဇ် ၁၂၆၆–ခုနှစ်၊ ကဆုန်လ (အေဒီ ၁၉၀၅–ခုနှစ်၊မေလ)တွင် ရန်ကုန်မြို့ ကဝိမျက်မှန်ပုံနှိပ်တိုက်၌ရိုက်နှိပ်သော ကွမ်းခြံကုန်းမြို့ လက်နိုက်ရွာ ရွှေကျောင်း ဆရာတော်အရှင်သုဇာတ၏ ဥတ္တိစတုတ္ထကမ္မဝါ စာအုပ်၊ ညောင်တုန်းမြို့ ရွှေဟသ်ာစံကျောင်းဆရာတော်ကြီး၏ ပရိဝါသမာနတ္တာဗ္ဗိနိစ္ဆယကျမ်းပါ ကမ္မဝါ–စသည်မျိုးဖြစ်သည်။

[*၈] လယ်တီဆရာတော်ကြီးဆောင်ထားခဲ့သော ထိုဆင်စွယ်ကမ္မဝါကို ယခုအခါ ပျဉ်းမနားမြို့၊ ငွေတောင်တောရ လယ်တီစံကျောင်းတိုက်၌ထိန်းသိမ်းထားရှိပါသည်။

ကမ္ဘဝါနှင့်အသံထွက်မှန်ရန်

လယ်တီတောရဆရာတော်ကြီးသည် ကမ္ဘဝါအခန်းခန်းကို စိတ်ကိုယ်ပင်ပန်းခံကာ ပြုစုစီရင်ပြီးသည့်အခါတွင် လယ်တီတောရတိုက်သံဃာများစုဝေးစေပြီး ကမ္ဘဝါဖတ်နည်း, ရွတ်နည်းစသည့် သိဖွယ်ရာရာတို့ကို သင်တန်းသဖွယ်ပို့ချပေးတော်မူပါသည်။ နောင်အခါ ဘုန်းတော်ကြီးက လယ်တီတိုက်အတွင်းတွင် လက်တွေ့ ကမ္ဘဝါသင်တန်းပေးပုံကို ဤသို့ မှတ်တမ်းတင်ထားတော်မူသည်။

ဥတ်,ကမ္ဘဝါဖတ်ရွတ်သောသူသည် ဌာန်,ကရိုဏ်း,ပယတ်တို့၌လည်းကောင်း၊ သဒ္ဒါဆယ်ပါးတို့၌လည်းကောင်း ကောင်းစွာလိမ်မာရာ၏။ လိမ်မာသောသူမှသာလျှင် ဖတ်ရွတ်ခြင်းငှာထိုက်၏။ ထို့ကြောင့်မဟုတ်လော?။ ဥတ်,ကမ္ဘဝါစာတို့နှင့်စပ်လျဉ်းရာတို့၌ 'ဗျတ္တေန ဘိက္ခုနာ ပဋိဗလေန သံဃော ဉာပေတဗ္ဗော'ဟူ၍ ဗျတ္တ–ပဋိဗလကို ထုတ်ဖော်၍ဟောတော်မူပေသတည်း။ (ဝိ၊၃။၉၉။)။*၁ ထိုအစီရင်တို့ကို သိတတ်ရုံမျှနှင့်လည်းမဖြစ်သေး။ သိမ်အပြင်၌ ကမ္ဘဝါဖတ်ခွင်သို့မဝင်မီ ရှေးအဖို့ကပင် ထိုထိုအက္ခရာတို့၌ ဌာန်,ကရိုဏ်းကျ နှုတ်,လျှာကျိုးပြီးသောသူမှသာ ကမ္ဘဝါဖတ်ခွင်သို့ ဝင်သင့်သည်။ စိတ်ကပင်သိသော်လည်း နှုတ်,လျှာမကျိုးဖူးချေက သံဃာအလယ်၌ ဖတ်သောအခါ နှုတ်,လျှာအချော်အချွတ်များ၍နေတတ်လှ၏။ ထို့ကြောင့် ရဟန်းပြုပြီးသောအခါမှစ၍ ကမ္ဘဝါဖတ်သင်ကြားမှုများကို အထူးကြောင့်ကြစိုက်ကြကုန်ရာ၏။ ငါတို့ မုံရွာမြို့ လယ်တီတိုက်တွင်း၌ရှိ ရဟန်းငယ်တို့သည် သီတင်းနေ့တို့၌ ကမ္ဘဝါဖတ် တတ်မြောက်လိမ်မာပြီးသော ထေရ်ကြီးတို့ကျောင်း၌စည်းဝေး၍ ကမ္ဘဝါဖတ်သင်ကြားမှုကို အမြဲပြုကြရကုန်၏၊ သတိရှိကြစေကုန်'–ဟူ၍ဖြစ်သည်။*၂

ကမ္ဘဝါစာမည်သည် ကံလေးပါးအားလျော်စွာ မာဂဓဘာသာဖတ်ရွတ်နည်းဖြင့် ညီညွတ်စွာရွတ်ဖတ်ခြင်းနှင့် လိုအပ်သောအနက်အဓိပ္ပာယ်ပါရှိခြင်းဟူသော အကြောင်းနှစ်ပါးဆုံလျှင် ကမ္ဘဝါစာသမ္ပတ္တိပြည့်စုံ၍ ကံပြီးမြောက်သည်ဟု ရှေးဆရာမြတ်တို့ဆိုကြပါသည်။*၃

မာဂဓဘာသာဟူသည် အခြားမဟုတ်၊ မဂဓတိုင်းသုံးဘာသာစကား (တစ်နည်း) ပါဠိဘာသာကိုဆိုသည်။ မဂဓ–ဟူသည်မှာလည်း အိန္ဒိယနိုင်ငံ ဗိဟာရ် (Bihar) ပြည်နယ်တောင်ပိုင်းကိုဆိုသည်။ မဂဓတိုင်း၌ ဘုရားပွင့်တော်မူခဲ့ပြီး ထိုမဂဓတိုင်းသူပြည်သားအပေါင်းကို တရားဟောတော်မူသောအခါ ယင်းမဂဓဒေသနေ မဂဓတိုင်းသားများနားလည်စေရန် မာဂဓဘာသာဖြင့်

*၁ ဤနေရာ၌ ပဋိဗလ–သည် ကမ္ဘဝါစာအတိုင်း အများသိကြားနားလည်အောင်ပြောဆိုရန် စွမ်းနိုင်ဖြစ်ရမည်ကိုသာ ရည်ညွှန်းသည်။ အခြားမည်မည်ဝါဝါစွမ်းနိုင်သူကိုမယူရ။ အရှင်အာဒိစ္စဝံသ၏ သိမသင်္ဂဟပါဠိနိသျ။ အောင်မိတ်ဆက်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ–၈)။

*၂ လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁၃၃)။

*၃ မိုင်းနိုင်းဆရာတော်ကြီး၏ တိပေဋကဝိနိစ္ဆယကျမ်း၊ ဒုတိယတွဲ။ ၁၉၀၁–ခုနှစ်။ (စာမျက်နှာ–၄၄၆)။

သာဟောကြားတော်မူခဲ့ရပါသည်။ သို့ပါ၍ သမ္မောဟဝိနောဒနီအဋ္ဌကထာ၌ ဘုရားရှင်သည် ဗုဒ္ဓစကားတည်းဟူသော ပိဋကတ်သုံးပုံအစဉ်တို့ကို မာဂဓဘာသာဖြင့်ဟောတော်မူသည်ဟူ၍ 'သမ္မာသမ္ဗုဒ္ဓေါပိ တေပိဋကံ ဗုဒ္ဓဝစနံ တန္တိံ အာရောပေန္တော မာဂဓဘာသာယဝေ အာရောပေတိ' (အဘိ၊ဋ္ဌ၊၂။၃၇၁။)။ဟု ဖွင့်တော်မူခဲ့ပါ၏။

ပါဠိဘာသာ ခေါ် မာဂဓဘာသာသည် သာသနာတော်၏အသက်ဟုဆိုအပ်သော ဝိနည်းကံဆောင်ရာတို့၌ လွန်စွာအကျိုးများပေသည်။ ရဟန်းခံခြင်း,သိမ်သမုတ်ခြင်းစသော သာသနာတော်၏မူလဘူတဖြစ်သည့် သံဃာ့ကံတို့ကိုဆောင်ရွက်ရာ၌ ဆိုင်ရာကမ္မဝါစာတို့သည် မပါလျှင် မပြီးသောအရာများဖြစ်ပြီးလျှင် ထိုကမ္မဝါစာတို့ကိုလည်း မာဂဓခေါ် ပါဠိဘာသာ၌ရှိသည့် သိထိလ, ဓနိတ, ဝိမုတ္တ, နိဂ္ဂဟိတ–စသည် ဗျည်းသရအက္ခရာတို့ကို ပီသအောင်ရွတ်ဖတ်နိုင်မှသာ ကံမြောက်၏။ ထိုသို့ရွတ်ဖတ်နိုင်ဖို့ရာမှာလည်း မာဂဓ ခေါ် ပါဠိဘာသာဆိုင်ရာ ရွတ်ဖတ်နည်းတို့ကို ကျွမ်းကျင်လိမ္မာတတ်သိဖို့လိုပေသည်။

လယ်တီတောရဆရာတော်ကြီးသည် ကမ္မဝါစာသမ္ပတ္တိပြည့်စုံရန် အချက်နှစ်ရပ်တွင် ပထမအချက်မှာ ကမ္မဝါစာ၌ ပုဒ်ပါဌ်မှန်ကန်ကျနအောင် ပြုပြင်စီရင်ဖို့ကိစ္စဖြစ်ရာ၊ ထိုကိစ္စအတွက် ၁၂၅၆–ခုနှစ်၊ ကဆုန်တစ်လ (အေဒီ ၁၈၉၄–ခုနှစ်၊ မေလ)တစ်လလုံးလုံး ကမ္မဝါစာမှန်သရွေ့ကို ကိုယ်တိုင်စိတ်တိုင်းကျ ပုဒ်ပါဌ် အက္ခရာသန့်ရှင်းအောင် ပြင်ဆင်ထားပြီးဖြစ်သည်။ ကမ္မဝါသမ္ပတ္တိ ပြည့်စုံရေးအတွက် ဒုတိယအချက်ဖြစ်သည့် မာဂဓဘာသာအသံထွက် နည်းစနစ်ကျနစွာ ရွတ်ဖတ်ခြင်းကိစ္စကို ဆောင်ရွက်တော်မူပြန်ပါသည်။

လယ်တီတောရဆရာတော်ကြီးက–

> 'ကရိုဏ်းခြားနားချက်ကိုလည်းမသိ၊ ဌာန်ခြားနားချက်ကိုလည်းမသိ၊ အသံသုတိခြားနားချက်ကိုလည်းမသိသော ရဟန်းသည် အဝါခြောက်ဆယ်ပင်ရငြားသော်လည်း သရဏဂုံပေး၍ ရှင်ပြုမူ၊ ကမ္မဝါဖတ်စစ်မှုတို့၌ အပပြုထိုက်သော ဝဇ္ဇနီယဘဗ္ဗပုဂ္ဂိုလ်သာဖြစ်သတည်း'ဟု ပွင့်ပွင့်လင်းလင်းမိန့်တော်မူပါသည်။[*၁]

ထို့ပြင် ဥပသမ္ပဒကံဆောင်ရာ၌ ကမ္မဝါဖတ်ပုံနည်းမကျ၍ ပဗ္ဗဇ္ဇိတဒုလ္လဘကိုဖျက်စီးတတ်ပုံအကြောင်းကိုလည်း လယ်တီတောရဆရာတော်ကြီးမိန့်ဆိုတော်မူသည်မှာ–

> 'ဥပသမ္ပဒ ဝိနည်းကံဆောင်ကြရာ၌ ပဓာနကိစ္စဖြစ်သော ရဟန်းလျာကို ရဟန်းအဖြစ်သို့ အောင်မြင်စွာရောက်ရှိစေရန် ဉတ်တစ်ကြိမ်၊ ကမ္မဝါသုံးကြိမ်နှင့် ကမ္မနိဋ္ဌာန်နိဂုံး ဤငါးရပ်ကို အောင်မြင်စွာရွတ်ဆိုနိုင်ဖို့လိုပေ၏။ ထိုဉတ်ကမ္မဝါနိဂုံးတို့ကို ဖတ်ရွတ်ရာတွင်လည်း ဗျတ္တေန ဘိက္ခုနာ ပဋိဗလေန သံဃော ဉာပေတဗ္ဗော–ဟူ၍ဟောတော်မူသောကြောင့် မာဂဓဘာသာအက္ခရာ, ပဒကို တစ်တစ်ခွခွ ပီသ

*၁ လယ်တီဆရာတော်၏ သာသနဝိသောဓနီ၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၂၅)။

အောင်မြင်အောင်ရွတ်စွမ်းနိုင်သောပုဂ္ဂိုလ်ကိုသာ ဖတ်ရွတ်စေရာ၏။ ထိုပုဂ္ဂိုလ်သည် လည်း ဌာန်အထူးအပြား၊ ကရိဏ်းအထူးအပြား၊ ပယတ်အထူးအပြား၊ သိထိလ, ဓနိတ, ဒီဃ, ရဿ, ဂရု, လဟု, နိဂ္ဂဟိတ, ဝိမုတ္တ, သမ္ဗန္ဓ, ဝဝတ္ထိတ–ဟူသော ဗျဉ္ဇနဗုဒ္ဓိဆယ်ပါးတို့၏ အထူးအပြားတို့ကိုသိ၍ တစ်လုံးတစ်လုံးသောအက္ခရာကို ရွတ်မည်ရှိသောအခါ တစ်ခုတစ်ခုသောမြင်းမိုရ်တောင်ကို ချီကြွအံ့သောအခါကဲ့သို့ လွန်စွာအားထုတ်၍ ရွတ်ဖတ်ရမည်။

အားထုတ်ပုံကား… သုဏာတု–ကိုရွတ်မည်ရှိရာ သု–အက္ခရာ၏ဌာန်ကိုလည်း ကောင်း၊ ကရိဏ်းကိုလည်းကောင်း၊ ပယတ်ကိုလည်းကောင်း၊ ဗျဉ္ဇနဗုဒ္ဓိအပိုင်းအခြား ကိုလည်းကောင်း သိ၍ရွတ်ရမည်။ xxx ကရိဏ်းကိုလည်းအတတ်သိ၍, ဗျဉ္ဇနဗုဒ္ဓိ အပိုင်းအခြားကိုလည်း အတတ်သိ၍, လုံးဝန်းမဏ္ဍလ ပြည့်ဝအောင်မြင်စွာ ရွတ်ရ မည်။ xxx သို့မဟုတ်ပါက သဘာဝနိရုတ္တိလက္ခဏာပျက်သောကြောင့် ကံပျက်မည်။

ဗုဒ္ဓုပ္ပါဒသမယမည်သည် ကမ္ဘာအသင်္ချေကြာမှ တစ်ခဏသာဖြစ်နိုင်သည်။ ထိုခဏနှင့် ကြုံကြိုက်ကြသူ တစ်သောင်းတစ်သိန်းတွင် တစ်ယောက်တစ်လေမျှသာ ပဗ္ဗဇိတသမယကို ရနိုင်သည်။ သို့ဖြစ်၍ သဒ္ဓါတရားနှင့်ပြည့်စုံသော အမျိုးကောင်း သားတစ်ယောက်သည် ရပြီး,ရဆဲ,ရလတ္တံ့သော မနုဿသမ္ပတ္တိတို့ကို အကုန်လုံးစွန့်၍ ပဗ္ဗဇ္ဇိတဒုလ္လဘကိုရခြင်းငှာ ရဟန်းပြုပါသည်။ သို့ပါလျက် ကမ္မဝါစာရွတ်ဖတ်သော ဆရာက အထည်အဝါသာကြီး၍ ဌာန်,ကရိဏ်း,ပယတ်,ဗျဉ္ဇနဗုဒ္ဓိအရာများကို မသိ လေသောကြောင့် တဝမ်းပူနှင့် ငှသံလျှင်းချိတ်၊ ထဆင်ထူးနှင့် ဌဝမ်းဘဲ၊ ဒတွေးနှင့် ဍသံကောက်၊ ဓအောက်ချိုက်နှင့် ဎရေမှုတ်၊ နငယ်နှင့် ဏကြီး၊ ယငယ်နှင့် ရကြီး၊ လငယ်နှင့် ဠကြီးတို့ကို ဌာန်,ကရိဏ်း ကွဲပြားကြသည့်အတိုင်း အသံကွဲအောင် ဖတ်နည်းရွတ်နည်းကို မသိမလိမ္မာသောကြောင့် ရတနာအပြည့်တင်သော သုံးပင်တိုင် သင်္ဘောကြီးကို မှောက်စေသကဲ့သို့ 'သုဏာတု' တစ်ခွန်းနှင့်ပင် ပဗ္ဗဇ္ဇိတဒုလ္လဘ အချက်ကြီးကို ဖျက်ဆီး၍ပစ်တတ်သည်'*၁–ဟူ၍ဖြစ်ပါသည်။

လယ်တီတောရဆရာတော်ကြီးသည် ကမ္မဝါစာသမ္ပတ္တိဖြစ်စေရန်နှင့် ကမ္မဝါရွတ်ဖတ်ရာ၌ ဒုရုတ္တမဖြစ်စေရန်အတွက် မာဂဓဘာသာ၏ရွတ်ဖတ်ပုံထုံးစည်းကမ်းတို့ကို မန္တလေးမြို့ မြောက်ပြင် စံကျောင်းတိုက်၌နေစဉ်အခါကပင် ဒုတိယစံကျောင်းဆရာတော်ကြီး၊ စလင်းဦးပဏ္ဍိစ္စ၊ မိုင်းခိုင်း ဦးပဏ္ဍိတ၊ မကုဋာရာမဦးခေမိန္ဒ၊ သစ်ဆိမ့်ဆရာတော်ဦးပညာသီဟ–စသော ဝိနည်းကျွမ်းကျင်ပြီး ပါဠိဘာသာစကားကိုလည်း အဟုတ်တကယ်နက်နက်နဲနဲနိုင်နင်းသည့် ဝိနယပါရဂူ ဘာသန္တရဝိဒူ ပုဂ္ဂိုလ်မြတ်ကြီးများထံတော်၌ ဝိနယပိဋက၊ ပရိဝါပါဠိတော်ကြီးကို အဋ္ဌကထာနှင့်တကွ သင်ယူ ခဲ့စဉ်ကပင် ကြေညက်ခဲ့ပြီးဖြစ်ပါသည်။

*၁ လယ်တီဆရာတော်၏ သာသနဝိသောဓနီ၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ ၇၇–၇၉)။

ဤနေရာ၌ ကမ္ဘောဇအကြောင်းစာရွက်ဖတ်ခြင်းအမှုသည် ဘာသာစကား၊ ဘာသာဗေဒအရာဌာနလည်း ဖြစ်ပေရာ လယ်တီဆရာတော်ကြီးသည် လောကီဘာသာဗေဒဘက်ကလည်း ပြည့်စုံအောင် လေ့လာအားထုတ်ခဲ့သည်ကို တွေ့ရှိရပါသည်။

ရှေးအစဉ်ကပင် ဆရာတော်ကြီးများသည် ပါဠိဘာသာကို မာဂဓဘာသာဖြစ်ကြောင်းသိတော်မူကြသော်လည်း ထိုပါဠိဘာသာဆင်းသက်ရာ, နီးနွယ်ရာ ဘာသာစကားများအကြောင်းကို နက်နက်နဲနဲလေ့လာသူကား နည်းပါးခဲ့ပါ၏။ ထိုသို့လေ့လာနိုင်ရန်မှာ မာဂဓဘာသာပေါ်ထွန်းရာ မဇ္ဈိမဒေသ(အိန္ဒိယနိုင်ငံ)သို့ ရောက်ဖူးဖို့လိုသည်။ သို့မဟုတ်ပါက ထိုဒေသ၌ပေါက်ဖွားသော ပုဂ္ဂိုလ်တို့နှင့်ဖြစ်စေ၊ ထိုဒေသသို့ရောက်ဖူးပေါက်ဖူး ထိုဒေသ၌အချိန်အတန်ကြာနေဖူးသော ပုဂ္ဂိုလ်တို့နှင့် တွေ့ဆုံဆွေးနွေးကြည့်ဖို့လိုပေသည်။

လယ်တီတောရဆရာတော်ကြီးသည် ကမ္ဘောဇအကြောင်းလေ့လာနေစဉ် သက္ကရာဇ် ၁၂၅၅ (အေဒီ–၁၈၉၃)ခုနှစ်အခါက မြန်မာနိုင်ငံ၏အပြင်ဘက် မဇ္ဈိမဒေသစသည်သို့ ခရီးမကြွဖူးသေးသည်ဖြစ်၍ ထိုမဇ္ဈိမဒေသမှ မြန်မာနိုင်ငံသို့လာရောက်သူများနှင့်တွေ့ဆုံပြီး ဆွေးနွေးကြည့်မှသာ မာဂဓဘာသာမျိုးနွယ်စု၏အကြောင်းကို သိရှိပေလိမ့်မည်။

လယ်တီတောရဆရာတော်ကြီးသည် ထိုမာဂဓအမျိုးနွယ်ကြီးအကြောင်းကို မန္တလေးမြို့ မြောက်ပြင်စံကျောင်းတိုက်၌နေတော်မူစဉ်အခါကပင် ကျွမ်းဝင်သိရှိတော်မူခဲ့ပြီးဖြစ်ပါသည်။ သို့ပုံမှာ- စံကျောင်းတိုက်၌သီတင်းသုံးနေစဉ်အခါက ယောမင်းကြီးဦးဘိုးလှိုင်သည် လောကဓာတ်ဆေးကျမ်း၊ မဟာသုတဇာတကကျမ်း၊ ကာယာနုပဿနာကျမ်းနှင့် လိပိဒီပိကာကျမ်းတို့ကို အင်္ဂလိပ်ဘာသာ၊ ပြင်သစ်ဘာသာကျမ်းဂန်များကို ကြည့်ရှုလေ့လာပြီး ရေးသားခဲ့ပါသည်။ လိပိဒီပိကာကျမ်းသည် ကြေးနန်းရိုက်နည်းကျမ်းဖြစ်ပြီး၊ ထိုကျမ်းတစ်နေရာ၌ 'ရေယန်းအရေးကိုဖတ်လျှင် မာဂဓဘာသာချည်းဖြစ်သည်'ဟု ရေးထားပါသည်။*၁ ရေယန်းဆိုသည်မှာ အာရိယန်(Aryan)ဖြစ်ပြီး ကမ္ဘာဦးရှေ့ဆောင် လူမျိုးနွယ်ကြီးတစ်မျိုး၏အမည်ဖြစ်၏။ ထိုအရိယန်လူမျိုးနွယ်ကြီးမှ ပါဠိဘာသာပါဝင်သော ဘာသာစကားတူရာ 'အင်ဒိုဥရောပ'လူမျိုးအုပ်စုကြီးတစ်ခု ဆင်းသက်လာ၏။ ထိုအုပ်စုတွင် 'အင်ဒို'ဟူသောအုပ်စု၌ ပါဠိဘာသာ၊ သက္ကတဘာသာစသည်တို့ ပါဝင်ကြ၏။ 'ဥရောပ'အုပ်စု၌ အင်္ဂလိပ်၊ ဂျာမန်စသော စကားများပါဝင်ကြ၏။ သို့ဖြစ်၍ ပါဠိစာပေကိုလေ့လာကြသော ဘာသာဗေဒပညာရှင်များက 'ပါဠိဘာသာသည် အင်ဒိုဥရောပဘာသာ(Indo-European Language)အုပ်စု၌ပါဝင်ပြီး သက္ကတဘာသာနှင့်အလွန်နီးစပ်တူညီကာ အိန္ဒိယနိုင်ငံ၌ အလွန်အရေးပါသော ဘာသာစကားတစ်ရပ်ဖြစ်ခဲ့၏။ အင်္ဂလိပ်စသော ဥရောပဘာသာစကားများနှင့်လည်း ဆက်စပ်မှုရှိသည်'ဟု ရေးသားခဲ့ကြပါသည်။*၂

*၁ ယောမင်းကြီး၏ လိပိဒီပိကာကျမ်း။ (စာမျက်နှာ–၁၀၁)။

*၂ Rune E.A. Johansson' Pali Buddhist Texts. Scandinavian Institute of Asian Studies Monograph Series No.14. Curzon Press, Oxford, 1977. Page-10.

လယ်တီတောရဆရာတော်ကြီးသည် ပါဠိဘာသာ(ခေါ်)မာဂဓဘာသာသည် အင်ဒို-ဥရောပ ဘာသာစကားအုပ်စုကြီး၌ပါဝင်နေခဲ့သည်ဖြစ်၍ ပါဠိဘာသာ၏ အသံထွက်ပုံစည်းစနစ်များကို လေ့လာရာတွင် ၎င်းဘာသာစကားနှင့်အနွယ်တူဖြစ်ခဲ့သော အနောက်နိုင်ငံဘာသာစကားများ ကိုပါ ပူးတွဲလေ့လာသင့်သည်ကို သိမြင်တော်မူခဲ့ပါသည်။ ထိုသို့ သိမြင်တော်မူသည့်အတိုင်း အနောက်နိုင်ငံအသံထွက်စနစ်ကို လေ့လာခဲ့သည်ကိုလည်း အောက်ပါရေးသားချက်များဖြင့် သိနိုင်ပါသည်။

'ငါတို့မြန်မာလူမျိုးမှာ သ,ရွတ်ပုံတစ်မျိုး၊ အနောက်နိုင်ငံသား *၁ တို့မှာ သ- ကို ယှ-ဟု ရွတ်ကုန်သည်။ ပယတ်ခွဲချက်နှင့်ညီသကဲ့သို့ရှိပေသည်။ စ, ဆ, ဇ, ဈ- တို့ကိုလည်း ကျ, ချ, ဂျ, ဃျ-ဟုရွတ်ကုန်သည်။*၂ လျှာလယ်ကရိုဏ်း ထင်ရှားလှ ပေကုန်သည်။ ငါတို့ရွတ်ပုံအလို စဝဂ်ငါးလုံးမှာ ဓိဝ္ဂကရိုဏ်းအားကြီးသည်။ ယခု ငါတို့နိုင်ငံရှိ သဒ္ဒါကျမ်းများ၌ရှိနေသော ဌာန်, ကရိုဏ်း, ပယတ် အစီအရင်များသည် အနောက်နိုင်ငံမှရောက်လာသော အစီအရင်များဖြစ်ခဲ့၍ အနောက်နိုင်ငံသားများ ရွတ်ဆိုပုံနှင့်မူကား အချို့မညီမညွတ်ရှိလေသည်။ မညီမညွတ်ရှိနေသော်လည်း မညီမညွတ်တိုင်း အပြစ်မဆိုသာ။ မာဂဓဘာသာမှန်ပေ၍ ဌာန်ခြောက်ပါးကို ထို ဌာန်ခြောက်ပါး၌ဖြစ်ကြသော အက္ခရာခြောက်မျိုး အသီးသီးကွဲပြားခြားနားဆောင်ရွက် ကြလျှင် သင့်မြတ်သည်။*၃

'အနောက်နိုင်ငံသားတို့မှာမူကား ပကတိစကားပြောရာမှာပင် ဂ-သံနှင့် ဃ- သံ ကွဲပေသည်။ ဇ-သံနှင့် ဈ-သံ ကွဲပေသည်။ ဍ-သံနှင့် ဎ-သံ ကွဲပေသည်။ ဒ-သံနှင့် ဓ-သံ ကွဲပေသည်။ ဗ-သံနှင့် ဘ-သံ ကွဲပေသည်။ ဤသို့ အနောက် နိုင်ငံသားတို့မှာ သူငယ်အခါ သင်ပုန်းကြီးသင်စဉ်ကပင် တတိယ, စတုတ္ထ ကွဲပြား ကြသည်။ ပကတိစကားပြောရာမှာပင် ဂ-ငယ်သံ, ဃ-ကြီးသံ သိသာခြားနား ကွဲပြားမှုလည်း သင့်မြတ်ရာသည်'*၄-ဟူ၍ အမိန့်ရှိခဲ့၏။

လယ်တီဆရာတော်ကြီးသည် အနောက်နိုင်ငံသားတို့ မာဂဓဘာသာကို အရွတ်အဖတ် ကောင်းကြောင်းကိုသာဖော်ပြသည်။ အနောက်နိုင်ငံသားတို့၏ရွတ်နည်းကိုလိုက်၍ ရွတ်ဖတ် ရန်ကိုကား မည်သည့်အခါမှ တိုက်တွန်းတော်မူခြင်းမရှိခဲ့ပေ။ စင်စစ် လယ်တီဆရာတော်ကြီး သည် မာဂဓဘာသာအသံထွက်ပုံနှင့်စပ်လျဉ်း၍ အနောက်နိုင်ငံသားတို့၏အသံထွက်ပုံကိုသာမက မိမိတို့တိုင်းရင်းမျိုးနွယ်ဖြစ်သော မွန်ရဟန်းတော်များ၏ ပါဠိဘာသာအသံထွက်ပုံစနစ်ကိုလည်း

---

*၁ ဤနေရာ၌ အနောက်နိုင်ငံဆိုသည်မှာ အိန္ဒိယကိုဆိုလိုဟန်ရှိပါသည်။

*၂ သက္ကတဘာသာစကားကို ဆိုလိုဟန်ရှိပါသည်။

*၃ လယ်တီဆရာတော်၏ သာသနဝိသောဓနီကျမ်း၊ တတိယတွဲ။ ၁၉၅၆-ခုနှစ်။ (စာမျက်နှာ-၂၉)။

*၄ လယ်တီဆရာတော်၏ သာသနဝိသောဓနီကျမ်း၊ တတိယတွဲ။ ၁၉၅၆-ခုနှစ်။ (စာမျက်နှာ-၃၆)။

တစ်နေ့နှင့်တစ်ညလုံး အချိန်ကုန်ခံကာ နားထောင်မှတ်သား နည်းယူတော်မူခဲ့ပါသည်။ ထိုသံယာတော်တို့ရွတ်ဆိုသည့်အတိုင်း အတုလိုက်၍လည်း ရွတ်ဆိုလေ့ကျင့်တော်မူခဲ့ဖူးပါသည်။*၁

**ကျေနတိ်သတိမဝါဆိုတော်မူခြင်း**

လယ်တီတောရဆရာတော်သည် ဝိနည်းတော်နှင့်စပ်သော ကမ္မဝါ စသည့်ကိစ္စတို့ဖြင့် အချိန်ကုန်လွန်စေပြီးသည့်နောက် ထိုသက္ကရာဇ် ၁၂၅၆-ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၉၄-ခုနှစ်၊ ဇူလိုင်လ) တွင် လယ်တီတောရမှာပင် (၂၉) ကြိမ်မြောက် ကျေနတိ်သတိမဝါကို ကပ်တော်မူခဲ့ပါသည်။

**လောကဝတ်ကိုမငဲ့ခြင်း**

'သူတော်ကောင်းရဟန်းတို့မည်သည် သီလစသော ရဟန်းတရားချွတ်မည်ကိုသာစိုးသည်။ လောကဝတ်ချွတ်မည်ကို တစ်စိုးတစ်စိမျှမစိုး'*၂ ဟူ၍ ရှေးဆရာမြတ်တို့၏ဆိုထုံးအတိုင်း လယ်တီတောရဆရာတော်သည် မိမိ၏ကျင့်ဝတ်ပဋိပတ်ကိုသာ မပျက်စေရန် စွဲမြဲစေပြီး ဒကာ, ဒကာမနှင့်ဆက်ဆံရာ၌ နှုတ်ထွက်မာသည်။ လောကဝတ်ပြုခဲသည်။ ကုဟန, လပန, ကုလဒူသက, အာပါထကဇ္ဈာယီ, မိစ္ဆာဇီဝ-*၃ ဟူသော ကုဟနဝတ္ထုတို့မှကင်းအောင်နေတော်မူ၏။

လယ်တီတောရဆရာတော်သည် ရဟန်းခံစဉ်ရလာသော သံသပိတ်ကြီးကိုလက်စွဲထားကာ ဆွမ်းခံဝတ်ဖြင့်အသက်မွေးတော်မူလေသောကြောင့် ဆွမ်းဒကာ,ကွမ်းဒကာဟု သံယောဇဉ်မရှိပေ။ ထိုတစ်လံမျှသောခန္ဓာဝမ်းတစ်ထွာအတွက်ကြောင့် မည်သည့်ပုဂ္ဂိုလ်ကိုမျှ ကုလဒူသကပြု၍ ရှာမှီးဖွယ်အကြောင်းမရှိ။ ဆရာတော်ကြီးသည် တောရနေစဉ်အခါကဆိုလျှင် ဆွမ်းခံရလာလျှင် မွန်မွန်မြတ်မြတ်ကို ဘုရားဆွမ်းတော်တင်သည်။ သူနာနှင့်သင့်သော အစားအစာခဲဖွယ်ကို သူနာရှိလျှင် ပို့ပေးသည်။ ထိုမှအကြွင်းကို မျှတရုံဘုဉ်းပေးသည်။ သပိတ်ဖြင့်ဘုဉ်းပေးခြင်းသာဖြစ်ပြီး သပိတ်ကိုဆေးကြောပြီးက နေ့အခါ ရေသိပ်လျှင်ရဖို့ရာ ရေကိုဖြည့်၍ထားသည်။ လယ်တီတောရဆရာတော်၌ ပန်းကန်ခွက်ယောက် ငွန်း ပန်းကန်လုံး ရေခွက်-စသည် ဟာဟီဟူ၍ ဘာမျှမရှိ။

ထို့အတူပင် လယ်တီတောရကြီးအတွင်း၌ ကပ်မိုး,ကပ်ကာ ဝါးတဲကျောင်းကလေးများသာရှိပြီး ကြီးကြီးမားမားထည်ထည်ဝါဝါ ကျောင်းကြီးမရှိသည့်အတွက် ကျောင်းဒကာဟုလည်း ငဲ့ကွက်စရာမလိုပေ။ ထိုကျောင်းဒကာစသောပုဂ္ဂိုလ်တို့ကြည်ညိုစေရန် မိမိကိုယ်၌ပြုပြင်ရသော

---

*၁ လယ်တီဆရာတော်၏ သာသနဝိသောဓနီကျမ်း၊ တတိယတွဲ။ ပြည်ကြီးမဏ္ဍိုင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၆-ခု။ (စာမျက်နှာ-၃၉)။

*၂ တတိယနံမော်ဆရာတော်ကြီး၏ သီလဝိသောဓနီကျမ်း။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၀၂-ခုနှစ်။ (စာမျက်နှာ-၆၄)

*၃ ကုဟန=ဒကာတို့ ကြည်ညိုအောင်ဟန်ဆောင်ခြင်း၊ လပန= မိမိသီလစင်ကြယ်ကြောင်း ထုတ်ဖော်ဟောပြောခြင်း၊ ကုလဒူသက= သစ်ဝါးပေး၍ ဒကာတို့အားကြည်ညိုစေခြင်း၊ အာပါထကဇ္ဈာယီ= ဒကာတို့ရှေ့မှာ ပုတီးတကိုင်ကိုင်နှင့် ဟန်ဆောင်ခြင်း၊ မိစ္ဆာဇီဝ= အထက်ပါနည်းတို့ဖြင့်ရသောပစ္စည်းဖြင့် အသက်မွေးမှု။ မဟာနိ။ ၁၇၂။

အမူအရာလည်းမရှိ။ ဝိနည်းကိုရိုသေခြင်း၊ သုတ်,အဘိဓမ္မာကိုရိုသေခြင်းငှာ ပြကတေ့သောစိတ်ဖြင့်သာ မပြုပြင်သောကိုယ်အမူကြိယာဖြင့် အစဉ်သုံးနေတော်မူသော လယ်တီတောရဆရာတော်ကား အနေအထိုင်ကောင်းသည်ဟုထင်ရှား၍ ချဉ်းကပ်ကြည်ညိုသူတစ်နေ့တခြားပေါ်များလေ၏။

ရှေးစကားရှိကြသည်မှာ လယ်တီဆရာတော်ကြီး၏မျက်နှာတော်သည် တင်းမာခက်ထန်သည့်အတွက် ဒကာများမချဉ်းကပ်ဝံ့ကြ။ တပည့်များလည်း အလွန်ကြောက်ကြရသည်ဟူ၏။*၁ ပမာအားဖြင့် သက်န်းလှူလိုသောဒကာသည် ဆရာတော်ကြီးချိုးရေသုံးသပ်စဉ်အခါ ချိုးရေအိမ်ကဏ္ဍိအနား၌ ပုံသကူပစ်၍ထားရ၏။ ထိုသို့ထားရာမှာလည်း ဖျင်သင်္ကန်းမှသာ ကောက်တော်မူ၏။ ပိုးဖဲစသည်ကို စိုးရွံ့တော်မူသည်၊ မသုံးဆောင်ဟူ၏။*၂

ရပ်ရွာတွင်းဆွမ်းပင့်၍ ဆွမ်းဘုဉ်းရာ၌ နီးရာဟင်းခွက်ကိုသာဘုဉ်းပေးတော်မူ၏။ ကျော်၍လှမ်း၍ဘုဉ်းပေးလေ့မရှိ၊ ဆွမ်းကပ်သူဒကာက ဟင်းကောင်းကြောင်း စကားထည့်သော် ထိုဟင်းကို မသိဟန်ပြုနေတော်မူသောအလေ့ရှိပါသည်။ ကြဏပရိဘောဂကိုလွှတ်စေခြင်းငှာ ပစ္စည်းလေးပါး၌ မသုံးမဆောင်မီနှင့် သုံးဆောင်စဉ်ကာလတို့၌ ပဋိက္ကူလသညာအားဖြင့် ဆိုင်ရာဝတ္ထုကို စိမ့်စိမ့်ရှုဆင်ခြင်တော်မူလေ့ရှိ၏။ တပည့်တို့ကိုလည်း ပဋိက္ကူလသညာ မလွှတ်စေရအောင် တင်းတင်းမာမာကြားတော်မူ၏။

လှူဒကာတို့ လယ်တီတောရသို့လာကြရာ၌ ဆရာတော်ကြီးထံပါးသို့ အကြောင်းကိစ္စမရှိဘဲ ချဉ်းကပ်ခွင့်မရ။ ကိစ္စရှိ၍ချဉ်းကပ်လျှင်လည်း လောကွတ်စကားမပြောရုံမျှမက လျှောက်ထားစရာကိစ္စကို တိုတိုလျှောက်စေ၏။

လယ်တီတောရသံဃာတို့ကို ဆွမ်းစဉ်ပရိတ်မလိုက်ကြနှင့်၊ ဝိညတ်ကြောင့်ရသော ပစ္စည်းဟူသမျှ တောရသို့မသွင်းနှင့်ဟု တားမြစ်၍ 'ငါ့ရှင်တို့ ပဗ္ဗဇိတ ဒုလ္လဘ ဟူသော ရဟန်းအဖြစ်ကို ရခဲသည်ဆိုရာ၌ အသက်မငဲ့မူ၍ သီလချစ်သောရဟန်းအဖြစ်မျိုးကို ရခဲသည်ဟုဆိုခြင်းဖြစ်သည်။ ရဟန်းဖြစ်ဆန်းကာမျှ ရဟန်းအဖြစ်မျိုးကို ရခဲသည်မဟုတ်' ဟု ဆုံးမတော်မူလေ့ရှိသည်။

ထိုသို့ ကြန္တေကြီးကြီးထား၍ နှုတ်ထွက်တင်းကာ ကျောင်းကန်ဒကာ–ဟူ၍ ငဲ့ကွက်ခြင်းအလျဉ်းမရှိ ဥပေက္ခာရှုနိုင်သည်ဖြစ်၍ လယ်တီဆရာတော်ကြီးကို ဥပေက္ခာသမားကြီးပါတကားဟု ထင်မြင်နိုင်သော်လည်း လယ်တီတောရအတွင်း၌ နံနက်မိုးမသောက်မီ သံဃာတို့၏ရေဝတ်နှင့် ဝေယျာဝစ္စကိုထမ်းရွက်နေပုံ၊ ဂိလာနသံဃာကို မရွံမရှာကိုယ်ဖိရင်ဖိပြုစုနေပုံ၊ ထေရ်ကြီးဝါကြီးတို့၌ အလွန်ရိုသေစွာဆက်ဆံပြုမူပုံ–စသည့်မြင်ကွင်းရှုကွင်းတို့အရ ဥပေက္ခာသမား လယ်တီဆရာတော်ကြီးကို မေတ္တာရှင်ကရုဏာရှင်ကြီးအဖြစ်လည်း ကြည်ညိုဖွယ်ဖူးတွေ့ကြရပေလိမ့်မည်။

ဥပေက္ခာရှုနိုင်သော ပုဂ္ဂိုလ်၏ရင်ဝယ် ကြီးမားသော မေတ္တာ,ကရုဏာ အဘယ့်ကြောင့်ကိန်းအောင်းနေပါသနည်းဆိုသော် မေတ္တာ,ကရုဏာ,မုဒိတာ,ဥပေက္ခာ–ဟူသော တရားလေးပါး

---

*၁ အင်းမလယ်တီဆရာတော်ကြီးဦးဉာဏ (၂၃–၄–၁၉၇၆)နေ့ မိန့်တော်မူချက်ဖြစ်သည်။

*၂ မုံရွာမြို့ မဟာလယ်တီတိုက်နာယက ဆရာတော်ဦးနန္ဒမာလာ၏ (၂၃–၄–၁၉၇၆)နေ့ မိန့်ဆိုချက်။

သည် အနှစ်သာရအားဖြင့် တူညီသောတရားမျိုးဖြစ်သောကြောင့်ပင်။ မေတ္တာ, ကရုဏာထားနိုင်သောပုဂ္ဂိုလ်၌ ဥပေက္ခာတရားရှိပြီးဖြစ်၏။ ဥပေက္ခာပြုနိုင်သောကြောင့်ပင် မေတ္တာ, ကရုဏာတရားကို လက်ကိုင်ထားနိုင်ခြင်းဖြစ်၏။

လောကူပမာအားဖြင့် သူတစ်ပါးကိုကျွေးမွေးလိုသည်ဆိုက ဈေးဦး မိမိကအငတ်ခံဖို့လို၏။ မိမိ၏အသက်အိုးအိမ်စည်းစိမ် ဂုဏ်ပကာသနကိုစွန့်နိုင်ပါမှ မျက်ကွယ်ပြုနိုင်ပါမှ တစ်ပါးသူကို ကူညီထောက်ပံ့နိုင်မည်မဟုတ်ပါလား။ သို့ပါ၍ မေတ္တာနှင့်ကရုဏာတရားကို ဥပေက္ခာနှင့်ထိန်းပေးမှ တည်တံ့ခိုင်မြဲမည်မှာ အမှန်ဖြစ်၏။

ဘုရားအလောင်းတော်တို့ဖြည့်ကျင့်သော ပါရမီ ၁၀-ပါးလာ ဥပေက္ခာတရားကမူ ပါရမီမြောက်တရားဖြစ်ရာ လောကအကျိုးကိုဆောင်သော လောကတ္ထစရိယ ဥပေက္ခာတရားမျိုးဖြစ်၏။ ထိုပါရမီမြောက်ဥပေက္ခာတရားသည် သတ္တဝါကိုသာကြည့်တော့၏။ မိမိကိုယ်တည်းဟူသောအတ္တကို ငဲ့ကွက်ခြင်းအလျဉ်းမရှိတော့။ အားလုံးအတွက်စွန့်နိုင်ခြင်းဖြစ်၍ မည်မျှရက်စက်ကြမ်းကြုတ်မှုကိုမဆို ခံဝံ့၏။ မည်မျှကြီးမားသောစည်းစိမ်မျိုးကိုမဆို စွန့်ဝံ့၏။ သတ္တဝါကိုအညီအမျှထား၍ ရှုနိုင်သည်ဖြစ်၍ ကြီးသည်ငယ်သည်၊ ဂုဏ်နိမ့်သည်မြတ်သည်ဟူ၍လည်း မယူဆတော့။ ဥပေက္ခာတရား၏အနှစ်ကို လယ်တီဆရာတော်ကြီးက- 'ဥပေက္ခာဆိုသည်ကား မိမိကြည်ညိုလေးမြတ်သောသူ၊ ပူဇော်သောသူ၊ ချီးမွမ်းသောသူဟူ၍လည်း သာယာခင်မင်စိတ် အထူးမရှိ။ မိမိကို ပြစ်တင်ပြစ်မှားပြုသောသူ၊ ညှဉ်းပန်းနှိပ်စက်သောသူ၊ ကဲ့ရဲ့သောသူဟူ၍လည်း မသာယာခြင်း မုန်းခြင်းမရှိ၊ ထိုသူနှစ်ဦးတို့၌ စိတ်နှစ်မျိုးမရှိ'[*၁]-ဟု မိန့်ဆိုတော်မူပါသည်။

**လယ်တီအဘိဓမ္မာဝတ်အသင်း**

လယ်တီဆရာတော်ကြီးသည် လောကဝတ်နည်းပါးသည့်နေရာ၌ သာယာဝတီမင်းခေတ် (အေဒီ ၁၈၃၇-၁၈၄၆)ခုနှစ်အခါက သာသနာတော်၌ နေလသဖွယ်ထင်ရှားကျော်ကြားသော ညောင်ကန်ဆရာတော်ကြီးဦးဗုဒ်နှင့် အလားတူလေသည်။ သို့သော် ဓမ္မဝတ်ကိုငဲ့ကွက်ရာ၌လည်း ဆရာတော်ဦးဗုဒ်နှင့်တူပြန်သည်။

တစ်ကြိမ်သောအခါက သာမဏေတစ်ပါးသည် ဆရာတော်ကြီးဦးဗုဒ်ထံရောက်လာပြီး ဆရာတော်ရေးသားတော်မူသော ဓမ္မစကြာပါဠိနိဿယကို နှုတ်လွတ်ပြန်လိုကြောင်း လျှောက်ထားသောအခါ အာဂန္တုဝတ်နည်းပါးသောဆရာတော်ဦးဗုဒ်သည် ကိုရင်လေးရွတ်ဆိုမည့် ဓမ္မစကြာဟူသော ဓမ္မက္ခန္ဓာကို အလေးအမြတ်ပြုသောအားဖြင့် ထိုရှင်ကလေးအား နေရာခင်းတော်မူပြီး ဓမ္မစကြာပါဠိနိဿယပြန်ဆိုသည်ကို ရိုသေစွာနာယူခဲ့ပါသည်။ ပြီးလျှင် စာပြန်ကိုရင်အား သင်္ကန်းတစ်စုံဖြင့် 'ဤသင်္ကန်းကိုဝတ်ရုံပါ။ တရားတော်ကိုပူဇော်ပါသည်'ဟု နှုတ်မြွက်ကာ လှူဒါန်းချီးမြှင့်ပူဇော်လေ၏။[*၂]

---

*၁ လယ်တီဆရာတော်ကြီး၏ ဥတ္တမပုရိသဒီပနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ- ? )။

*၂ ဦးသုဒဿန၏ ညောင်ကန်သာသနာဝင်။ ၁၃၂၁-ခုနှစ်။ (စာမျက်နှာ-၁၉၅)။

ထိုနည်းတူပင် ဒကာ,ဒကာမတို့နှင့် ငြိတွယ်ခြင်းကင်းသော လယ်တီတောရဆရာတော်ထံသို့ အင်စပက်တော်ဦးလူနိုင်အမှူးရှိသော လူလေးကျိပ်ကျော်တို့လာရောက်ကြပြီး 'တပည့်တော်တို့သည် ဝတ်အသင်းအဖွဲ့ပြုကြပြီး မြို့ကျက်သရေဆောင် ဆုတောင်းပြည့်ဘုရားကြီးနှင့် ရွှေစည်းခုံဘုရားကြီးအာရုံခံဝတ်တို့တွင် ညစဉ်ဝတ်တက်ဝတ်ကပ်ပြုလိုကြပါသည်ဘုရား'*[၁]ဟု လျှောက်ထားလာကြ၏။ ထိုအခါ လယ်တီဆရာတော်ကြီးသည် ဘုရားဝတ်တက်လိုသည်ဟူသော ရည်ရွယ်ချက်ရှိကြသည့် ဒကာတို့အလိုဆန္ဒအတိုင်း လိုက်လျောတော်မူကာ ထိုဘုရားဝတ်တက်လိုကြသော ဒကာတို့အား မင်းတုန်းမင်းကြီးလက်ထက်အခါက ဝတ်တက်သူတို့ကျင့်ထုံးပုံအတိုင်း ပြသပေးတော်မူပါသည်။

မင်းတုန်းမင်းကြီးလက်ထက်တော်အခါက မန္တလေးမြို့အတွင်း ရပ်ကွက်တိုင်း၌ ဥပုသ်ဇရပ်များတည်ဆောက်ပေးထားပြီး ဝါတွင်းဝါပအဖိတ်နေ့တိုင်း ဝတ်အသင်းသားများစုဝေး၍ ဥပုသ်ယူကြရသည်။ မဟာမုနိဘုရားသို့လည်း အရုဏ်တော်ကပ်သွားကြရသည်။ ထိုဝတ်သူဝတ်သားတို့သည် ဥပုသ်နေ့မတိုင်မီ အဖိတ်နေ့ညကကြိုတင်၍ ဘုရားဝတ်တက်ရ၏။ ဥပုသ်နေ့တွင် ဥပုသ်သီလဆောက်တည်ရ၏။ ထိုဥပုသ်နေ့ညကို အိမ်မပြန်ရဘဲ ဘုရားဝတ်တက်ကြပြီး နောက်တစ်နေ့မှ အိမ်သို့ပြန်စေ၏။ မင်းတုန်းမင်းကြီးက ဥပုသ်သည်ဝတ်အသင်းများကို အဝတ်အထည်အသုံးအဆောင်ဆုလာဘ်များချီးမြှင့်ရုံသာမက အန္ဓပုထုဇဉ်နှင့် ကလျာဏပုထုဇဉ်ဟူ၍ ပုထုဇဉ်နှစ်မျိုးခွဲခြားပြီး အန္ဓပုထုဇဉ်ဖြစ်က တစ်သီတင်းလျှင်တစ်မူး၊ ကလျာဏပုထုဇဉ်ဖြစ်က တစ်သီတင်းလျှင် ငွေတစ်မတ် ထောက်ပံ့ချီးမြှင့်တော်မူပါသည်။ ထို့ပြင် သိင်္ဂါလောဝါဒသုတ်လာ ကျင့်ဝတ်များနှင့် ခန္ဓာ,အာယတန,ဓာတ်,သစ္စာ သရုပ်သကန်များမခွဲတတ်လျှင် အန္ဓဥပုသ်သည်ဟု ခေါ်စေသည်၊ ခွဲခြားတတ်လျှင် ကလျာဏဥပုသ်သည်ဟု ခေါ်စေ၏။ ဥပုသ်သည်ဝတ်သားတို့သည် ဝတ်ဖြူစင်ကြယ် ဝတ်ဆင်ရသည်။*[၂]

ရှေးခေတ် ဝတ်သားဥပုသ်သည်များထုံးနည်းအတိုင်း လယ်တီတောရဆရာတော်ကြီးက မိမိ၏ဝတ်အသင်းသားများကို ဝတ်ဖြူစင်ကြယ်ဝတ်စေသည်။ နွားသားမစားမသောက်, ရှောင်ကြဉ်စေ၏။ ထိုလယ်တီဝတ်အသင်းသားတို့သည် အဖိတ်နေ့ကစ၍ အဖိတ်, ဥပုသ်, ဥပုသ်ထွက်–ဟု သုံးရက်ဥပုသ်စောင့်ရ၏။ နေ့အခါ လူကျင့်ဝတ်အတွက် သိင်္ဂါလောဝါဒသုတ်နှင့် ခန္ဓာ, အာယတန, ဓာတ်, သစ္စာ စသည်နားလည်စေရန် အဘိဓမ္မာသင်္ဂြိုဟ်ကျမ်းကို သင်ယူကြရ၏။ ညအခါ ဘုရားဝတ်တက်ကြရ၏။ ဝတ်တက်ရာတွင် သြကာသကန်တော့ချိုးကို ရှေးဦးဆိုရ၏။ ဆရာတော်ကြီး၏သြကာသကန်တော့ချိုးသည် ထိုခေတ်အခါက ကံ,ဒွါရစသော အယူနှစ်ရပ်တို့မှလွတ်သော သြကာသကန်တော့ချိုးဖြစ်၏။

---

*[၁] လယ်တီပဏ္ဍိတဦးမောင်ကြီး၏ ပဋ္ဌာန်းလက်စွဲသုံးစောင်တွဲ။

*[၂] မင်းတုန်းမင်းကြီးသည် ထိုဥပုသ်သည်တို့နေထိုင်ရန်ကိုပင် မန္တလေးမြို့၊ မြောက်ပြင် အောင်မြေသာစံမြို့နယ်အတွင်း ဥပုသ်တော်ရပ်–ဟူ၍ ရပ်ကွက်ကြီးပြုလုပ်နေရာချထားပေးခဲ့၏။ နတ်မောက်ထွန်းရှိန်၏ ဝင်းတွေနဲ့တည်ခဲ့သည့် မင်းနေပြည်။ ၂၀၀၁–ခုနှစ်။ (စာမျက်နှာ–၁၅၀)။

ဩကာသဘုရားရှိခိုး(လယ်တီမူ)

ဩကာသ-ဩကာသ-ဩကာသ၊ ဘုရားရတနာ, တရားရတနာ, သံဃာရတနာတည်းဟူသော ရတနာမြတ်သုံးပါးအပေါင်းတို့အား ကာယဝန္ဒနာ, ဝစီဝန္ဒနာ, မနောဝန္ဒနာတည်းဟူသော သုံးပါးသော ရှိခိုးခြင်းတို့ဖြင့် အကျွန်ုပ် အရိုအသေအလေးအမြတ်ပြု၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ပါသည်ဘုရား။*၁

(ရတနာသုံးပါးတို့အား ရှိခိုးဝပ်ချသောအခါ၌ ပုဆစ်၊ ဒူးနှစ်ခု၊ လက်နှစ်ခု၊ နဖူးပြင်တစ်ခုတို့ကို မြေ၌ထားလျက် သုံးကြိမ်ရှိခိုးဝပ်ချရမည်။)

ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ရသော ဤကောင်းမှု ဤကုသိုလ်စေတနာ၏အာနုဘော်ကြောင့် ဒိဋ္ဌဓမ္မ ဤဘဝမှစ၍ ဖြစ်လေရာရာဘဝတိုင်းတို့၌ အပါယ်လေးပါး, ကပ်သုံးပါး, အရပ်ပြစ်ရှစ်ပါး, ရန်သူမျိုးငါးပါး, ဝိပတ္တိတရားလေးပါး, ဗျသနတရားငါးပါးတို့မှ အစဉ်ကင်းလွတ်၍ ရာဂ, ဒေါသ, မောဟ, ဇာတိ-အစရှိသော မီးတစ်ဆယ့်တစ်ပါးတို့၏ကင်းငြိမ်းရာ ခေမာအမတံ ပြည်နိဗ္ဗာန်သို့ အမြန်ရောက်ရပါလို၏ အရှင်မြတ်ဘုရား။

ဩကာသကန်တော့ချိုးကိုရွတ်ဆိုပြီးသည့်နောက် နမောတဿ-ပဏာမကို အနက်နှင့်တကွဆို၊ ထို့နောက် သရဏဂုံပါဠိအနက်နှင့်တကွ ရွတ်ဆိုကြရသည်။ ပြီးလျှင် ရှစ်ပါးသီလခံယူဆောက်တည်ကြရသည်။

လယ်တီဆရာတော်ကြီးက 'နမောတဿကို မဟာနမက္ကာရကြီး-ဟူ၍ သဒ္ဒနီတိကျမ်း၌ဆို၏။ ဘုရားလက်ထက်တော်မှအစဉ်ထက်လာသော မဟာပဏာမကြီးပေတည်း။ ကြေကြေမွမွရကြစေ'ဟု မိန့်တော်မူပါသည်။*၂

နမောတဿပါဠိအနက်(လယ်တီမူ)

နမော တဿ ဘဂဝတော အရဟတော သမ္မာ သမ္ဗုဒ္ဓဿ။

(သုံးခေါက်ဆို)

အရဟတော=ဗြဟ္မာ,နတ်,လူ သုံးဘုံသူတို့၏ ပူဇော်အထူးကို ခံတော်မူထိုက်ပေထသော၊ သမ္မာသမ္ဗုဒ္ဓဿ=သစ္စာဉေယျ ဓမ္မအပုံ အလုံးစုံကို အကုန်မကျန် မြတ်ရွှေဉာဏ်ဖြင့် အမှန်ထိုးထွင်း အလင်းသိမြင်တော်မူပေထသော၊ တဿ ဘဂဝတော=ထိုမြတ်စွာဘုရားအား၊ နမော-နမာမိ= ရိုသေမြတ်နိုး လက်စုံမိုး၍ ရှိခိုးပါ၏အရှင်ဘုရား။*၃

---

*၁ လယ်တီဦးပဒုမ၏ လယ်တီဝတ်ရွတ်စဉ်။ ဣန္ဒာသယပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၃-ခုနှစ်။ (စာမျက်နှာ-၂)။

*၂ ယင်း။ (စာမျက်နှာ-၃)။

*၃ ယင်း။ (စာမျက်နှာ-၃)။

သရဏဂုံပါဠိအနက်(လယ်တီမူ)

ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ။

ဓမ္မံ သရဏံ ဂစ္ဆာမိ။

သံဃံ သရဏံ ဂစ္ဆာမိ။

ဗုဒ္ဓံ=မြတ်စွာဘုရားကို။ သရဏံ-သရဏံက္ကတိ=ဒုက္ခကင်းပျောက် ချမ်းသာရောက်ဖို့ ထောက်ရာတည်ရာ ကိုးကွယ်ရာဟူ၍၊ ဂစ္ဆာမိ=ဆည်းကပ်ပါ၏။

ဓမ္မံ=မဂ်လေးတန် ဖိုလ်လေးတန်, နိဗ္ဗာန်,ပရိယတ် အမြတ်ဆယ်ဖော် တရားတော်ကို၊ သရဏံ-သရဏံက္ကတိ=ဒုက္ခကင်းပျောက် ချမ်းသာရောက်ဖို့ ထောက်ရာတည်ရာ ကိုးကွယ်ရာဟူ၍၊ ဂစ္ဆာမိ=ဆည်းကပ်ပါ၏။

သံဃံ=သီလဝန် ဂုဏဝန် ကလျာဏပုထုဇ္ဇန် အရှင်မွန်အရှင်မြတ်တို့နှင့်တကွ၊ ပရမတ္ထသံဃာ အရိယာပုဂ္ဂိုလ်အပေါင်းကို၊ သရဏံ-သရဏံက္ကတိ= ဒုက္ခကင်းပျောက် ချမ်းသာရောက်ဖို့ ထောက်ရာတည်ရာ ကိုးကွယ်ရာဟူ၍၊ ဂစ္ဆာမိ=ဆည်းကပ်ပါ၏။*၁

ဤသို့ ဘုရားရှိခိုးခြင်းစသော သီလဆောက်တည်ခြင်းပဏာမကိစ္စတို့ဆောင်ရွက်ပြီးသောအခါ ပဋ္ဌာန်းပစ္စယနိဒ္ဒေသပါဠိတော်၊ ဓမ္မစကြာသုတ်ပါဠိတော်နှင့် အနတ္တလက္ခဏာသုတ်ပါဠိတော်တို့ကို အနက်နှင့်တကွ အလှည့်ကျရွတ်ဆိုပူဇော်ကြရပါသည်။*၂

လယ်တီတောရတရားပွဲ

လယ်တီတောရအတွင်း ရှေးရှေးအခါက အဖိတ်နေ့၊ ဥပုသ်သီတင်းနေ့များတွင် နေ့ဆွမ်းဘုဉ်းပေးပြီးနောက် တရားပွဲကျင်းပတော်မူလေ့ရှိ၏။ တရားပွဲကျင်းပမည့်အကြောင်းကို တစ်ရက်နှစ်ရက်စသည်ကြို၍ ဆရာသဲနှင့် ဦးကြာမြင့်တို့က မြို့ထဲ၌ ကြေးစည်ကြီးထု၍ လှည့်လည်ကြေညာ နှိုးဆော်ကြ၏။

လယ်တီတောရအတွင်း တရားပွဲကျင်းပသည်ဆိုသော်လည်း ထိုစဉ်အခါက ကျောင်းကြီးကြီးမရှိသေးသည့်အတွက် လယ်တီဆရာတော်ကြီးက မန်ကျည်းပင်ဝါးတဲကျောင်းကလေးအတွင်းမှဖြစ်စေ၊ ထိုကျောင်းကလေးအဝ မန်ကျည်းပင်အောက်၌ဖြစ်စေနေ၍ တရားဟောတော်မူပါသည်။ သံဃာ့ပရိသတ်က ဆရာတော်ကြီးအနီး၌ရံ၍ဖြစ်စေ၊ အချို့သံဃာများ သစ်ပင်ရိပ်ကလေးများအောက်မှာနေရာယူ၍ဖြစ်စေ ရှိသေစွာနာယူကြ၏။ လူပရိသတ်မှာလည်း လူဥပါသကာကြီးများက

*၁ လယ်တီဦးပဒုမ၏ လယ်တီဝတ်ရွတ်စဉ်။ ဏဣသာသယပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၃-ခုနှစ်။ (စာမျက်နှာ-၄)။

*၂ လယ်တီဆရာတော်ကြီး၏ ပဋ္ဌာန်းပစ္စယနိဒ္ဒေသပါဠိအနက်နှင့် ဓမ္မစကြာပါဠိအနက်တို့ကို လယ်တီဆရာတော်ကြီး၏ ပဋ္ဌာန်းလက်စွဲသုံးစောင်တွဲ။ ဒဂုန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၈-ခုနှစ်တွင်ရှုပါ။ လယ်တီဆရာတော်ကြီး၏ အနတ္တလက္ခဏာသုတ်ပါဠိအနက်ကို ဟံသာဝတီပုံနှိပ်တိုက်ကစီစဉ်သော ဓမ္မစကြာနှစ်စောင်တွဲ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၀-ခုနှစ်။ (စာမျက်နှာ ၇၈-၁၄၈)တွင်ရှုပါ။

သံဃာ့ပရိသတ်နောက်မှနေ၍ တရားနာကြ၏။ မိန်းမပရိသတ်မှာမူ အကာအကွယ်နောက်မှ နေရာယူရ၏။ ဆရာတော်ကြီးမမြင်လောက်သောအရပ်မှာသာနေရ၏။ *၁

လယ်တီတောရဆရာတော်ကြီး၏တရားပွဲကို နာယူလိုက်ဖူးသောပုဂ္ဂိုလ်တို့၏ပြောပြချက်အရ ဆရာတော်ကြီး၏အသံတော်သည် အလွန်လေးနက်သြဇာရှိ၍ ပျံ့နှံ့တော်မူကြောင်း၊ ဆရာတော်ကြီးသည်တရားဟောရာ၌ တရားနာခံ တရားထောက်ဖြင့် အပြန်အလှန်အမေးအဖြေ ပြုပြီးဟောတော်မူလေ့ရှိကြောင်းသိရသည်။ လယ်တီတောရတရားပွဲများ၌ တရားနာခံ တရားထောက်တို့မှာ ဆရာသဲ၊ ဆရာတောက် စသူတို့လုပ်ကြရ၏။ နောက်ကာလကြာလာမှ အမိန့်တော်ရ ဦးကျော့စံကလုပ်ရ၏။ ဆရာတော်ကြီးသည် တရားဟောရာ၌ အရပ်သူအရပ်သားများ၏ မျက်စိနားပွင့်လင်းစေရန်ရည်ရွယ်ပြီး ပါဠိဂါထာများရွတ်၍ ဟောခြင်းကိုရှောင်တော်မူကာ လောက ဥပမာမျက်မြင်သာကေများဖြင့်သာ ဟောကြားတော်မူလေ့ရှိပါသည်။ ရံခါ လှည်းနှင့်ပုံပြ၍ မဏ္ဍပ်နှင့်ပုံပြ၍ လေှနှင့်ပုံပြ၍ ဟောကြားတော်မူလေ့ရှိပါသည်။ *၂

လယ်တီတောရကြီးအတွင်း၌ လယ်တီဆရာတော်တရားဟောနေတော်မူသော ခေတ်ကာလ (အေဒီ-၁၈၉၃/၉၄ ဝန်းကျင်)တွင် ဘုန်းတော်ကြီးများတရားဟောပြောကြရာ၌ များသောအားဖြင့် ထန်းလက်ဖြင့်ပြုလုပ်ထားသော လူတစ်ကိုယ်ကွယ်လောက်သည့် ယပ်တောင်အကြီးကြီးများကို ကိုင်စွဲ၊ ထိုယပ်ကိုရှေ့ကထောင် အကာအကွယ်ယူလျက် ယပ်ထောင်တရားကိုသာ ဟောပြောလေ့ရှိ၏။

ယပ်ထောင်တရားဆိုသည်မှာ တရားဟောပုဂ္ဂိုလ်က တရားပလ္လင်ထက်၌ ယပ်ကြီးထောင်၍ မိမိရှေ့က ကွယ်ထားပြီးလျှင် ရှေးတရားစာများ၌ပါသည့်အတိုင်း ကရားရေလွှတ်တတွတ်တွတ် နိမ့်သံမြင့်သံမရှိ အဖြတ်အတောက်မရှိဘဲ ဟောသောတရားမျိုးဖြစ်သည်။

လယ်တီတောရဆရာတော်ကမူ ယပ်အကွယ်အကာမရှိသော်လည်း စက္ခုန္ဒြေချကာ မိမိ၏ ပင်ကိုယ်ဉာဏ်ဖြင့် တရားသားကို ဥပမာဥပမေယျတို့ဖြင့် စီကာပတ်ကုံး ရှင်းလင်းဟော ပြောတော်မူခြင်းဖြစ်သည်။ စပ်ဆိုင်ရာပါဠိများကို ရွတ်သင့်ရာ၌ရွတ်၏။ အနက်ဆံကို ဝိဂြိုဟ် ဝစနတ်မထုတ်ဘဲ အနက်ချောရုံပေးသွား၏။ တရားနာသူ၏စိတ်နားမှာပါ နက်နက်နဲနဲ ထင်မြင်ကာ စွဲကျန်ရစ်သွားလေအောင် လေးနက်သောအပြော၊ ပြောင်မြောက်သောစကားလုံးတို့ဖြင့် လိုရင်းကျအောင်ဟောပေးသော တရားဟောနည်းမျိုးဖြစ်သည်။ ထိုနည်းကို လယ်တီဆရာတော် ကြီးသည် မန္တလေးမြို့ စံကျောင်းတိုက်၌နေစဉ်အခါက စံကျောင်းတိုက်၏အရှေ့ဘက်တွင်တည်ရှိ သော ရွှေကျင်ငါးတိုက်၌ ထိုခေတ်ကထင်ရှားလှသော ရွှေကျင်ဆရာတော်ဘုရားကြီး၏

*၁ မုံရွာမြို့ ဆဋ္ဌမလယ်တီဆရာတော်ကြီးဦးဉာဏ၏ (၂၄-၄-၁၉၇၆)နေ့ မိန့်ဆိုတော်မူချက်ဖြစ်သည်။

*၂ မုံရွာမြို့၊ လယ်တီရပ်နေ အသက်(၇၀)အရွယ်ရှိ သံခိပ်အသင်းသူကြီးဒေါ်စိန်မြ၏ (၂၄-၄-၁၉၇၆)နေ့ ပြောပြချက် ဖြစ်သည်။

တရားဟောပြောနည်းကို အတုရခဲ့ဟန်ရှိသည်။ ထိုတရားဟောနည်းမျိုးကို ယပ်ကိုမကာမကွယ်ဘဲ ဟောသောနည်းဖြစ်၍ ယပ်လှဲတရားဟောနည်းဟုလည်းခေါ်ကြ၏။[*၁]

လယ်တီတောရကြီးအတွင်း၌ လယ်တီတောရဆရာတော်ဟောကြားတော်မူခဲ့သော တရားဒေသနာအချို့ကို ကောက်နုတ်ဖော်ပြလိုပါသည်။ ထိုစဉ် ဆရာတော်ကြီးဟောကြားတော်မူလေ့ရှိသောတရားတော်မှာ ဗုဒ္ဓုပ္ပါဒဒုလ္လဘနှင့်စပ်၍ ဒုလ္လဘငါးပါးတရား[*၂] များဖြစ်၏။ ဝေဒယိတသုခနှင့် သန္တိသုခရှင်းတမ်း–ဟူသော သုခနှစ်ဖြာတရားတော်၊[*၃] ရံခါ အဘိဓမ္မာဆိုင်ရာတရားတော်များ၊[*၄] နိဗ္ဗာန်ဆိုင်ရာတရားတော်များ[*၅]–ကိုလည်း ဟောကြားတော်မူပါသေးသည်။

**တိံသတိမဝါဆိုတော်မူခြင်း**

လယ်တီတောရဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၅၇–ခုနှစ်၊ ဝါတွင်း (အေဒီ ၁၈၉၅–ခုနှစ်၊ ဇူလိုင်လ) သို့ရောက်လျှင် လယ်တီတောရကြီးအတွင်းမှာပင် အကြိမ် (၃၀) မြောက် တိံသတိမဝါကို ကပ်တော်မူခဲ့ပါသည်။ ဤဝါတွင်း၌ ဆရာတော်ကြီးသည် ဝါကျွတ်လျှင် မဇ္ဈိမဒေသသို့ ဘုရားဖူးကြွရန် အစီအမံများပြုတော်မူခဲ့ပါသည်။

**မဇ္ဈိမဒေသသို့ဘုရားဖူးကြွရန်**

ပွင့်တော်မူသောဘုရားဟူသမျှတို့မစွန့်လွှတ်ကြပေသော အဝိဇဟိတဌာနကြီးလေးပါး[*၆] ကို ရောက်ရှိဖူးမြော်ရသူတို့မှာ နတ်ပြည်တံခါးပွင့်၍ နတ်ရွာသုဂတိသို့ရောက်နိုင်သည်ဟူသောဒေသနာရှိပေရာ(ဒီ၊၂၊၁၁၇။ ဗုဒ္ဓဝံသ၊၄။၁၅၈)။ ထိုဒေသနာကိုအစွဲပြု၍ အဝိဇဟိတလေးဌာနဖြစ်သည့် (က) ဘုရားရှင်ပွင့်တော်မူရာ ဗုဒ္ဓဂယာအရပ်ရှိ မဟာဗောဓိပင် ဝဇိရာသနပလ္လင်တော်ဌာန၊ (ခ) ဓမ္မစကြာတရားဦးဟောကြားရာ ဣသိပတနမိဂဒါဝုန်တော၊ (ဂ) သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော် ဂန္ဓကုဋီတိုက်အတွင်းခင်းထားအပ်သော ညောင်စောင်း၏ခြေလေးခုတို့ကျရာနေရာဌာနနှင့် (ဃ) ဘုရားရှင် တာဝတိံသာနတ်ပြည်၌ အဘိဓမ္မာတရားဟောကြားတော်မူပြီး လူ့ပြည်သို့ဆင်းသက်ရာ သင်္ကဿနဂိုရ်ပြည် စောင်းတန်းမုခ်ဦးဌာန[*၇]–ထိုလေးဌာနသို့ ဗုဒ္ဓဘာသာ

---

*၁ ယပ်လှဲတရားဟောနည်းကို ပထမရွှေကျင်ဆရာတော်ဘုရားကြီးမှ စတင်ဟောပြောတော်မူသည်။ နောင်အခါ ရွှေအင်ပင်ဆရာတော်လည်း ဟောသည်ဟု အရှင်ပဏ္ဍိစ္စ၏ ကျိုက္ကစံယပ်လှဲတရားစာ၊ ပထမတွဲ။ (စာမျက်နှာ–၄၂)၌ ပြဆိုထား၏။

*၂ လယ်တီဆရာတော်ကြီး၏ ဒုလ္လဘငါးပါးတရားတော်ကို လယ်တီဟောကိန်းတရားစာ၊ ပထမတွဲ။ အမျိုးသားစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ ၅–၂၁)၌ရှုပါ။

*၃ ဤသုခနှစ်ဖြာတရားတော်ကို လယ်တီဆရာတော်ကြီး၏ လယ်တီဟောကိန်းတရားစာ။ (စာမျက်နှာ ၃၅–၄၆)တွင်ရှုပါ။

*၄ ဤအဘိဓမ္မာဆိုင်ရာတရားတော်တို့ကို လယ်တီဆရာတော်ကြီး၏ လယ်တီဟောကိန်းတရားစာ။ (စာမျက်နှာ ၂၁–၄၆)တို့တွင်ရှုပါ။

*၅ ဤနိဗ္ဗာန်ဆိုင်ရာတရားတော်ကို လယ်တီဆရာတော်ကြီး၏ လယ်တီဟောကိန်းတရားစာ။ (စာမျက်နှာ–၉၀)၌ရှုပါ။

*၆ ဤဌာနလေးရပ်သည် ပြောင်းရွှေ့၊ ရွှေ့လျားခြင်းမရှိသောဌာနဖြစ်၍ အစလစေတိယဌာန–ဟုလည်းခေါ်သည်။ မ၊၄၊၂။၇၂။

*၇ အရှင်သြဘာသာဘိဝံသ၏ သုတေသနသရုပ်ပြအဘိဓာန်။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၂၀၀၂–ခုနှစ်။ (စာမျက်နှာ–၆၁)။

ဝင်တို့အဖို့ တစ်သက်တွင်တစ်ကြိမ် မဖြစ်မနေအဖူးမြော်ရောက်ရှိကောင်းသည်ဟူသော အယူဖြင့် ကြိုးစား၍သွားရောက်ကြပေသည်။

ဖော်ပြပါ အဝိဇဟိတဌာနကြီးလေးဌာနသည် အိန္ဒိယနိုင်ငံ၏မြောက်ပိုင်းရှိ အနောက်ဘင်္ဂလား*၁ ပြည်နယ်၊ ဗီဟာရ်*၂ ပြည်နယ်၊ ဝိန္ဓျတောင်တန်းနှင့် ရာဇပုတနပြည်နယ်တို့၏အကြားလွင်ပြင်အတွင်း၌တည်ရှိနေပေသည်။ ယင်းဒေသကို ရှေးအိန္ဒိယမှတ်တမ်းတို့၌ မဇ္ဈိမဒေသ (မဇ္ဈိမ=အလယ်၊ ဒေသ=အရပ်)ဟုသတ်မှတ်ခေါ်ဝေါ်ခဲ့ကြ၏။*၃ မဇ္ဈိမဒေသဟု သတ်မှတ်ခေါ်ခဲ့ခြင်းမှာလည်း ဥတ္တရပထ(ဥဒိစ္စ)ဒေသ၊ အပရန္တ(ပတိစ္စ)ဒေသ၊ ပုဗ္ဗဒေသနှင့် ဒက္ခိဏာပထဒေသတို့၏အကြား(တစ်နည်း) ဒေသကြီးလေးခု၏အလယ်အရပ်တွင်ရှိသောကြောင့်ဖြစ်သည်။*၄

မဇ္ဈိမဒေသသည် ဘင်္ဂလားပြည်နယ်*၅ ၌ရှိပြီး၊ ဘင်္ဂလားပင်လယ်အော်*၆ ကိုဖြတ်ကျော်၍ သွားရခြင်းကြောင့် မြန်မာနိုင်ငံသားတို့က မဇ္ဈိမဒေသသို့သွားသည်ကိုပင် 'ဘင်္ဂလားသွားသည်' ဟုလည်းကောင်း၊ ဘင်္ဂလားပြည်နယ်၏မြို့တော် ကာလကတ္တား*၇ သို့သွားလျှင်လည်း 'ဘင်္ဂလားသွားသည်'ဟုလည်းကောင်း၊*၈ တစ်ဖန် ဘင်္ဂလားပြည်နယ်အတွင်းရှိ ဗောဓိပင်ရှိရာ ဗုဒ္ဓဂယာသို့သွားလျှင်လည်း 'ဘင်္ဂလားသွားသည်'*၉ ဟူ၍သာ ပြောဆိုလေ့ရှိကြပြန်ပါသည်။

လယ်တီတောရဆရာတော်သည် မဇ္ဈိမဒေသခေါ် ဘင်္ဂလားရှိ သံဝေဇနီယ, အဝိဇဟိတ, အစလစေတိယဌာန–စသဖြင့် အမျိုးမျိုးခေါ်ဆိုနိုင်သော ထိုဌာနကြီးများသို့ သွားရောက်ကြည်ညိုဖူးမြော်ရန် ဆန္ဒဖြစ်ပေါ်လာခဲ့ပေသည်။ ဘင်္ဂလားသို့သွားလိုသော လယ်တီဆရာတော်ကြီး၏ဆန္ဒသည် ရှေးယခင် မန္တလေးမြို့ စံကျောင်းတိုက်၌နေစဉ်အခါကပင် ဖြစ်ပေါ်ခဲ့ဟန်ရှိသည်။

---

*၁ Western Bengal

*၂ Bīhār

*၃ ဤမဇ္ဈိမဒေသအတွင်း၌ ဗုဒ္ဓဘာသာဝင်တို့နှင့်သက်ဆိုင်သော (၁) သံဝေဇနီယ ၄–ဌာန၊ (၂) အဝိဇဟိတ ၄–ဌာန၊ (၃) ဝါကပ်တော်မူရာ ၁၄–ဌာန၊ (၄) သိက္ခာပုဒ်ပညတ်တော်မူရာအပါအဝင် ၇–ဌာန၊ ဓာတ်တော်ဝေရာရရှိသည့် ၁၀–ဌာန စသည်တို့ပါဝင်သည်။ တောင်ပေါက်ဆရာတော်၏ ဗုဒ္ဓသာသနိကပဋ္ဌဝိဝင်ကျမ်းကြီး။ တိ–နိ ဥပဌာကအဖွဲ့၊ ရန်ကုန်မြို့။ ၁၉၉၂–ခုနှစ်။ (စာမျက်နှာ–၆၂၊၆၃၊၆၆)။ (မြေပုံ၊ စာမျက်နှာ–၅၉)။

*၄ အရှင်ကိတ္တိ၏ ဇမ္ဗူဒီပယကြေးမုံကျမ်းကြီး။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၃၃–ခုနှစ်။ (စာမျက်နှာ–၅)။

*၅ ဘင်္ဂလား ခေါ် ဗင်္ဂါလ်ပြည်နယ်အတွင်း၌ အိန္ဒိယပြည်နယ်ရှိ အနောက်ပိုင်းပြည်နယ် များစွာပါဝင်သည်။ ဤနယ်၏ အကျယ်မှာ စတုရန်းမိုင် ၈၄၀၉၂–မိုင်ရှိပြီး၊ ၁၉၁၂–ခုနှစ် လူဦးရေ ၄၆,၂၀၅,၆၄၂–ဦးရှိသည်။ အရှင်ကိတ္တိ၏ ဇမ္ဗူဒီပယကြေးမုံကျမ်းကြီး။ ၁၉၃၃–ခုနှစ်။ (စာမျက်နှာ–၃၇)။

*6 Bay of Bangal

*၇ Calcutta

*၈ Moung Shoay Doon' Journal of A Visit to Calcutta in the Year 1835. The Free School Press, Maulmein. 1836. Page-၁၊ 1.။

*၉ ဒေါ်ကြန်(တည်း)၏ ဘင်္ဂလားသွားစာတမ်း။ မြန်မာနိုင်ငံသမိုင်းကော်မရှင်၊ ရန်ကုန်မြို့။ ၁၉၆၃–ခုနှစ်။ (စာမျက်နှာ–၂၊၃)။

အကြောင်းမှာ လယ်တီဆရာတော်ကြီးသည် အာရိယန်လူမျိုး*[၁]တို့အကြောင်းကို ယောမင်းကြီး ဦးဘိုးလှိုင်ထံမှ ကြားဖူးစကပင် ထိုအာရိယန်လူမျိုးတို့၏နေရာ မဇ္ဈိမဒေသဘက်သို့ သွားရောက်လိုခြင်းဖြစ်သည်။ ထို့ပြင် လယ်တီတောရဆရာတော်ကြီးသည် ယောမင်းကြီးပြုစုသော လိပိဒီပိကာကျမ်း၌ဖော်ပြပါရှိသော အာရိယန်တို့၏အကၡရာ၊ အာရိယန်လူမျိုးတို့၏နေရင်းဒေသတို့ကိုလည်း စိတ်ဝင်တစားရှိတော်မူခဲ့ပေသည်။*[၂]

ထို့ပြင် လွန်ခဲ့သော သက္ကရာဇ်–၁၂၅၆(အေဒီ–၁၈၉၄)ခုနှစ်က လယ်တီတောရအတွင်း ကမ္မဝါစာများကို တည်းဖြတ်ပြင်ဆင်စဉ်အခါကလည်း လယ်တီတောရဆရာတော်ကြီးသည် မဇ္ဈိမဒေသ၏နေရာကို အမှန်အကန်ညွှန်ပြနိုင်ပြီဖြစ်သည်။*[၃] ပမာအားဖြင့် မဇ္ဈိမဒေသပိုင်းခြားရာ သလ္လာဝတီမြစ်ကိုဖော်ပြရာတွင်–

> 'အလွန်ရှေးကျ၍ ရိုးသားလှသောဆရာတော်ကြီးများသည် ချင်းတွင်းမြစ်ကို သလ္လာဝတီမြစ်ဟု သမုတ်ပြီး ချင်းတွင်းမြစ်အနောက်ဘက်ကို မဇ္ဈိမဒေသဟု ယူဆကြသည်။ မှားလေစွ။ မဇ္ဈိမဒေသပိုင်းခြားရာ သလ္လာဝတီမြစ်ကား ကာလကတ္တား မြောက်ဘက် ဗိဟာရ်နယ်တောင်ပိုင်းမှာရှိသည်*[၄]–ဟူ၍ ညွှန်ပြခဲ့ခြင်းမျိုးဖြစ်သည်။

ရှေးစာဟောင်းများအရ မြန်မာနိုင်ငံကမထေရ်ကြီးများသည် ဤနိုင်ငံ၏ပြင်ပ အခြားနိုင်ငံများသို့ကြွချီတော်မူကြရာတွင် အိန္ဒိယနိုင်ငံထက် သီဟိုဠ်နိုင်ငံသို့ အကြွများကြကြောင်းတွေ့ရသည်။*[၅] အကြောင်းမှာ သီဟိုဠ်၌ စာပေလေ့လာရန်၊ စာပေသင်ယူရန်၊ ထိုမှတပါး စွယ်တော်မြတ်ဖူးရန်ဟူသော အကြောင်းများရှိသည်။ အိန္ဒိယနိုင်ငံရှိ အဝိဇဟိတဌာနစသည်တို့မှာ ထိုခေတ်က အဋ္ဌကထာစသည်၌ပြထားသော စာရင်းမျှသာရှိပြီး၊ 'ဤနေရာဤဌာနပဲ'ဟု အတိအကျညွှန်ပြ

---

*[၁] Aryan

*[၂] ယောမင်းကြီးဦးဘိုးလှိုင်၏ လိပိဒီပိကာကျမ်းကိုရှုရန်။ ဆရာမာယစီစဉ်သော ခင်ကြီးဖျော်၏ သဒ္ဒဇမ္ဗူဟာကျမ်း၊ လိပိဒီပိကာကျမ်းနှင့် လိပိကဒီပနီကျမ်း။ ဇွဲပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၁–ခုနှစ်။ (စာမျက်နှာ–၉၉၊ ၁၀၁)။

*[၃] မြန်မာနိုင်ငံ၌ သာသနာတော်ကိုအထူးကြည်ညိုရကား အိန္ဒိယဒေသ၌ဖြစ်ပေါ်ခဲ့သော သာသနာဝင်ဆိုင်ရာစသည်တို့ကို ဤနိုင်ငံမှာဖြစ်ဘိသို့၊ အိန္ဒိယနိုင်ငံရှိ ဒေသအမည်များကိုလည်း ဤနိုင်ငံမှာ မှည့်ခေါ်ထားရှိခဲ့ကြသဖြင့် ကာလကြာသော် အိန္ဒိယနိုင်ငံရှိ မူလဖြစ်သော သာသနိကဆိုင်ရာဒေသအမည်များနှင့် ဤနိုင်ငံ၌ နောက်ကာလမှမှည့်ခေါ်ထားကြသော အမည်တူများကြောင့် ရောနှောသည့်သဘောများရှိခဲ့သည်။

*[၄] လယ်တီဆရာတော်ကြီး၏ ကမ္မဝါဒီပနီကျမ်း။ ၁၃၃၅–ခုနှစ်။ (စာမျက်နှာ–၃)။

*[၅] လူပုဂ္ဂိုလ်များတွင် မင်းမှုတာဝန်ဖြင့် ဘင်္ဂလားသို့သွားကြရသည်။ ယင်းတွင် သက္ကရာဇ်–၁၁၉၂(အေဒီ–၁၈၃၀)တွင် ဝန်ထောက်မင်းကြီးမဟာစည်သူ ဦးဆောင်သော ဘင်္ဂလားသွားသံအဖွဲ့ရှိခဲ့သည်။ ယင်းအဖွဲ့သည် သက္ကရာဇ် ၁၁၉၄–ခု၊ တပို့တွဲလဆန်း–၅ (၂၅၊ ဇန်နဝါရီလ၊ ၁၈၃၃)တွင် မဟာဗောဓိပင်သို့သွားခဲ့သည်။ ဒေါ်ကြန်၏ ဗင်္ဂလားသွား မြန်မာသံတော်အဖွဲ့ (အေဒီ–၁၈၃၀)။ Selected Writing of Daw Kyan, MHC, Yangon, 2005. Page-203. ကင်းဝန်မင်းကြီးသည်လည်း သက္ကရာဇ်–၁၂၃၇(အေဒီ–၁၈၇၅)ခုနှစ်တွင် မင်းတုန်းမင်း၏ကိုယ်စား ကုသိုလ်တော်များ လှူရေးအတွက် မဟာဗောဓိသို့ မင်းမိန့်တာဝန်နှင့်သွားရောက်ခဲ့ပါသည်။ ကင်းဝန်မင်းကြီး၏ ကဗျာစု။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ ၁၃၉–၁၇၃)။

လယ်တီဆရာတော်ကြီး အသုံးပြုတော်မူသော ဆင်စွယ်ကမ္မဝါ



မဟာဗောဓိစေတီတော်
(လယ်တီဆရာတော်ကြီးဖူးမြင်ခဲ့ရသော
မဟာဗောဓိစေတီတော်ဖြစ်သည်။
ယခုမဟာဗောဓိစေတီမှာ အေဒီ ၁၈၂၃-ခုနှစ်တွင်
ပြန်လည်ပြုပြင်ထားသောပုံဖြစ်သည်။)



လယ်တီဦးသောဘန
(လယ်တီဆရာတော်ကြီးနှင့်အတူ
မဟာဗောဓိစေတီသို့လိုက်ပါခဲ့သော
မထေရ်တစ်ပါးဖြစ်သည်။)

နိုင်မှုအရေးမှာ လွန်စွာမှခဲယဉ်းလှပေသည်။ ထိုအဝိဇ္ဇာတဌာနတို့ကိုသွားလာနိုင်ရန် အိန္ဒိယတွင် အေဒီ ၁၈၅၄–ခုနှစ်တွင်မှ မီးရထားလမ်းများဖွင့်လှစ်နိုင်ခဲ့ပြီး၊[*၁] ထိုရှေးဟောင်းဌာနတို့ကိုလည်း အိန္ဒိယနိုင်ငံ ရှေးဟောင်းသုတေသနဌာနက အေဒီ ၁၈၆၃–ခုနှစ်နောက်ပိုင်း ထိန်းသိမ်းစောင့်ရှောက်ပြီးမှသာ ဘုရားဖူးကြွမည့်ပုဂ္ဂိုလ်တို့အတွက် အဆင်ပြေပြေ ဖူးခွင့်ရခဲ့ကြခြင်းဖြစ်သည်။[*၂]

လယ်တီတောရဆရာတော်ကြီးတို့ အိန္ဒိယနိုင်ငံ ဗုဒ္ဓဂယာသို့မကြွမီအခါက အိန္ဒိယ၊ သီဟိုဠ်စသော ပြည်ပသို့ကြွတော်မူခြင်းနှင့်စပ်၍ သီဟိုဠ်ကျွန်း (လင်္ကာဒီပ)သို့ သက္ကရာဇ်–၁၂၃၉ (အေဒီ–၁၈၇၇)ခုနှစ်တွင် ရွှေကျင်ဆရာတော်ဘုရားကြီးသည်လည်းကောင်း၊[*၃] သက္ကရာဇ်–၁၂၄၉ (အေဒီ–၁၈၈၇)ခုနှစ်တွင် အုဂ်ဖိုဆရာတော်ဘုရားကြီးသည်လည်းကောင်း[*၄] ကန္ဒီမြို့[*၅]ရှိ စွယ်တော်ဓာတ်မြတ်ကိုဖူးမြင်ရန် ကြွတော်မူကြကြောင်းကို ဆိုင်ရာနိကာယ သာသနာဝင်ကျမ်းများတွင် ဖော်ပြထားသည်။

မဇ္ဈိမဒေသ ဘင်္ဂလားနယ်သို့ကား သက္ကရာဇ် ၁၂၄၂ (အေဒီ ၁၈၈၀) ခုနှစ်တွင် အုဂ်ဖိုဒွါရဆရာတော်ကြီး ရှေးဦးပထမကြွတော်မူဖူးပါသည်။[*၆] အဂ္ဂမဟာလင်္ကာရကဝိဓဇမဟာဓမ္မရာဇဓိရာဇဂုရု–တံဆိပ်တော်ရ သင်္ဂဇာဆရာတော်ကြီးသည် သက္ကရာဇ်၁၂၄၄–ခုနှစ်၊ ပြာသိုလဆန်း ၅–ရက် (၁၃၊ ဒီဇင်ဘာလ၊ ၁၈၈၂) ရန်ကုန်မြို့မှ မီးသင်္ဘောစီး၍ အိန္ဒိယနိုင်ငံ ကာလကတ္တားမြို့သို့ရောက်ရှိကာ မဟာဗောဓိစသည်တို့ကိုဖူးမြော်ပြီး မင်းတုန်းမင်းကြီး၏သားတော် ညောင်အုပ်မင်းသား (အေဒီ– ? –၁၈၉၇)အိမ်တော်တွင် တစ်ဝါမျှသီတင်းသုံးတော်မူခဲ့သည်။[*၇] ထိုသို့ဆိုလျှင် အုဂ်ဖိုဒွါရဆရာတော်ကြီးသည် မဇ္ဈိမဒေသို့ ပထမဦးဆုံးရောက်ရှိသော မြန်မာဘုန်းကြီးပင်ဖြစ်ပေလိမ့်မည်။ ယခု လယ်တီတောရဆရာတော်ကြီးကား မဇ္ဈိမဒေသို့ တတိယမြောက်ဘုရားဖူးကြွရောက်သောပုဂ္ဂိုလ်ဟု ဆိုနိုင်မည်ထင်ပါသည်။

လယ်တီဆရာတော်ကြီးသည် မဇ္ဈိမဒေသသို့ဘုရားဖူးကြွတော်မူရာတွင် ခေတ်ကာလအားလျော်စွာ ယာဉ်၊ရထားများသည် ကောင်းမွန်ခြင်းမရှိသေးသည့်အတွက် ရန်ကုန်မြို့ဆိပ်ကမ်းမှသည် မိုင်–၇၅၀ ကျော်ဝေးသော ကာလကတ္တားမြို့ဆိပ်ကမ်းအထိ ရေလမ်းခရီးဖြင့်သွားရမည့်

[*၁] အရှင်ကိတ္တိ၏ ဇမ္ဗူဒီပ(?)ယကြေးမုံကျမ်းကြီး။ ၁၉၃၃–ခုနှစ်။ (စာမျက်နှာ–၁၇)။

[*၂] မိဂဒါဝုန်ဦးကိတ္တိမာ၏ မဟာဗောဓိပုပ္ဖတ္တိကထာ။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၂၀၀၆–ခုနှစ်။ (စာမျက်နှာ–ည)။

[*၃] ရွှေကျင်ဆရာတော်ဘုရားကြီး၏ သီရိလင်္ကာကြွတော်မူပုံတို့ကို လင်္ကာသာသနဝိသုဒ္ဓိကထာကျမ်း၌ရှုပါ။ ရွှေကျင်ဆရာတော်ဘုရားကြီး၏ လင်္ကာသာသနဝိသုဒ္ဓိကထာ။သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ ၁–၂၇၈)။

[*၄] အရှင်သီရိသောဘဏ၏ မဟာဒွါရနိကာယသာသနဝံသဒီပနီ။ ၁၃၃၆–ခုနှစ်။ (စာမျက်နှာ–၄၂၅)။

[*၅] Kandy

[*၆] အရှင်သီရိသောဘဏ၏ မဟာဒွါရနိကာယသာသနဝံသဒီပနီ။ ၁၃၃၆–ခုနှစ်။ (စာမျက်နှာ–၄၂၀)။

[*၇] မောင်ပုတ်နီ၏ မဟာဗောဓိမဂ္ဂဒီပဏီစာတန်း။ ဘာဂါလိမောင်းပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၈၈၃–ခုနှစ်။ (စာမျက်နှာ–ဂ၊ ဃ)။

လယ်တီတောရဆရာတော်ကြီးသည် မည်မျှကိုယ်စိတ်ဆင်းရဲမှုများ ကြုံတွေ့ရမည်ကို မှန်းဆ သိနိုင်သည်။

**မဟာဗောဓိခရီး**

သက္ကရာဇ် ၁၂၅၇–ခုနှစ်၊ ပြာသိုလ (အေဒီ–၁၈၉၅၊ ဒီဇင်ဘာလ)အတွင်းတွင်[*၁] လယ်တီတောရ ဆရာတော်ကြီးသည် လယ်တီတောရတိုက်ကို ရှင်လက်ာ၊ ရှင်သုဘောဂ၊ ရှင်ဝိဇယ၊ ရှင်သိရိ-တို့အား[*၂] ကျောင်းစောင့်အကြီးအမှူးပြုထား၍ စိတ်ချကျေနပ်လောက်သောအခါ၌ မဇ္ဈိမဒေသ မဟာဗောဓိသို့ ဘုရားဖူးကြွတော်မူရန် ပြင်ဆင်တော်မူခဲ့ပါသည်။ ထိုစဉ်အချိန်၌ ဆရာတော်ကြီးမှာ သက်တော် ၄၉–နှစ်၊ ဝါတော် ၂၉–ဝါ ရှိခဲ့ပေပြီ။

တောရဆရာတော်ကြီးနှင့်အတူလိုက်ပါကြမည့် အရှင်နေယျ၊ အရှင်သောဘဏ–အစရှိသော နောက်ပါသံဃာတို့နှင့် ဘုရားဖူးပရိသတ်တစ်စုသည် မုံရွာမြို့မှ မန္တလေးမြို့သို့ ရှေးဦးစွာသွားကြရ၏။ ထိုအခါက မုံရွာမြို့နှင့် မန္တလေးမြို့မှာ မီးရထားလမ်းမရှိသည့်အတွက်[*၃] မုံရွာမြို့မှ မြင်းမူမြို့သို့ ပစ္စည်းများလှည်းဖြင့်တင်၍ လာကြရ၏။ မြင်းမူမှတစ်ဖန် ရောဝတီမြစ်ကြောင်းအတိုင်း မီးသင်္ဘောဖြင့် မန္တလေးမြို့သို့စုန်လာရပေသည်။[*၄]

မန္တလေးမြို့သို့ရောက်လျှင် မန္တလေးမြို့၌ ခေတ္တသီတင်းသုံးနားနေကြပြီး၊ တပို့တွဲလပြည့်ကျော် ၃–ရက် (အေဒီ–၃၁၊ ၁၊ ၁၈၉၆)တွင် မန္တလေးမြို့မှ ရန်ကုန်မြို့သို့ စာပို့မီးရထားဖြင့် ခရီးဆက်ခဲ့ကြရသည်။[*၅] လယ်တီတောရဆရာတော်ကြီးသည် ခရီးသွားနေစဉ်အခါ၌ ခရီးသွားရဟန်းတို့ကျင့်ရမည့်ကျင့်ဝတ်တို့ကိုလည်း ပြည့်ပြည့်ဝဝကျင့်တော်မူပါသည်၊ အထူးသဖြင့် မီးရထား၊ မီးသင်္ဘောတို့ပေါ်၌ ကျောချကိန်းစက်လေ့မရှိဘဲ သဟသေယျသိက္ခာပုဒ်ကို အထူးလုံခြုံအောင် စောင့်ရှောက်တော်မူခဲ့သည်။

လယ်တီတောရဆရာတော်သည် မီးရထားထက်စီးနင်းလိုက်ပါစဉ် အာရုံပျက်ပြားစေနိုင်သော အနှောင့်အယှက်တို့ကြားမှပင် ရှေးကာလကစိတ်ကူးရင်းစွဲရှိပေသော ဗုဒ္ဓဘာသာဝင် သူတော်စင်တို့ အလွယ်တကူသဘောပေါက် နှုတ်တတ်ဆောင်နိုင်လွယ်စေရန် ပဋိစ္စသမုပ္ပါဒ်

[*၁] လယ်တီဆရာတော်ကြီး၏ ပဋိစ္စသမုပ္ပါဒ်ဒီပနီကျမ်း။ ဟံသာဝတီစာပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၃၂၄–ခုနှစ်။ (စာမျက်နှာ–၃၆)။

[*၂] အရှင်ပဏ္ဍိတ(နာဂလိုဏ်ဂူ)၏ ကလေးဝဆရာတော်ကြီး (၈၈)နှစ် မွေးနေ့အထိမ်းအမှတ်စာတမ်း။ ဂန္ထဝင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၄–ခုနှစ်။ (စာမျက်နှာ–၁၆)။

[*၃] မန္တလေး–မုံရွာ မီးရထားလမ်းမှာ ၁၃၂၅–ခုနှစ်တွင်ဖောက်၍ပြီးစီးခဲ့သည်။ လှသမိန်၏ မြန်မာနိုင်ငံတစ်ခွင် ခရီးလမ်းစဉ်များ။ တင်ဆွေအေးစာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၅၉)။

[*၄] လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၀၃)။

[*၅] ယင်း။ (စာမျက်နှာ–၁၀၂)။

တရားတော်မြတ်၏သံဝေဇ္ဇောတဗ္ဗဖြစ်သော ပဋိစ္စသမုပ္ပါဒ်ပျို့လင်္ကာ ၁၃–ပုဒ်[*၁] တို့ကို မန္တလေး မြို့ဘူတာရုံမှ စာပို့မီးရထားထွက်သည်နှင့် စတင်ရေးသားတော်မူပါသည်။ မီးရထားပေါ်၌ သမာဓိပျက်ဖွယ် အထွေထွေသောအမြင်, အကြား, အနံ့, အသိတို့ဖြင့် ရှုပ်ထွေးနေသည့်ကြားမှပင်–

'ဗောဓိရတနာ၊ ယာဉ်စကြာဖြင့်၊ သစ္စာလေးရပ်၊ လေးကျွန်းပတ်သည်၊ နတ်ဝိသုဒ္ဓိ၊ တုမရှိအား၊ တြိဒွါရ၊ ရှိခိုးခလျက်၊ ဘဝသုံးပါး၊ ဟုန်းဟုန်းသွားသည်၊ ရထားသံသရာ၊ ယာဉ်စကြာ၏၊ ခြင်းရာထုပ္ပတ်၊ သမုပ္ပါဒ်ကို၊ အတတ်သိရန်၊ နိဒါန်းပြန်ပိမ့်။ အမှန်လေးချက်၊ သဘောနက်ကို၊ ဖုံးဝှက်ကွယ်ကာ၊ အဝိဇ္ဇာဟု၊ မဟာတမ၊ မှောင်ကြီးကျလျက်၊ ဘဝမြို့သိုက်၊ ရှိန်ရှိန်အိုက်သား၊ အမှိုက်မီးစာ၊ ဤခန္ဓာကို၊ တွယ်တာသမှု၊ အကြောင်းပြု၍၊ အကုသလ၊ မမွှညစ်ဆိုး၊ အပြစ်မျိုးကို၊ ကြိုးကြိုးပမ်းပမ်း၊ နေ့စဉ်ထမ်းသည့်၊ ပါယ်လမ်းဗီဇ၊ အပုညနှင့်၊ ဘဝနောင်ခါ၊ သံသရာ၌၊ လူ့ရွာနတ်ငြမ်း၊ စည်းစိမ်သွမ်းကို၊ ချမ်းသာအတိ၊ အထင်ငြိလျက်၊ ဂတိနောင်ကို၊ ကောင်းစေလို၍၊ ကုသိုလ်အရိုး၊ အမျိုးမျိုးကို၊ ကြိုးကြိုးစားစား၊ ပြုတုံငြားက၊ ဆယ်ပါးပုည၊ အာနေဥ္ဇဟု၊ ဘဝနှီးရင်း၊ ပွားတုံလျှင်းသည့်၊ ဝဋ်ခင်း ဝဋ်နွယ် ရှည်သတည်း–ဟူ၍အစချီသော ပဋိစ္စသမုပ္ပါဒ်ပျို့လင်္ကာ ၁၃–ပုဒ်တို့ကို စတင်ဖွဲ့စီတော်မူခဲ့ပေသည်။[*၂]

ဤသို့ ပဋိစ္စသမုပ္ပါဒ်ပျို့လင်္ကာတို့ကို မန္တလေးမြို့မှ ရန်ကုန်မြို့မီးရထားလမ်းတစ်လျှောက် တစ်စတစ်စရေးစပ်ဖွဲ့ဆိုခဲ့ရာတွင် ခရီးဆုံးဖြစ်သောရန်ကုန်မြို့ဘူတာရုံသို့ ရထားဝင်ချိန်၌ 'ဝဋ်သံသရာ၊ ရှည်မင်းစွာ၌၊ သူငါကစ၊ ဖြစ်သမျှကား၊ သတ္တမဟုတ်၊ ဓာတ်မှန်ထုတ်သော်၊ နာမ်ရုပ်နှစ်သင်း၊ ပါ။ သုခဟူသည်၊ မြူမျှမကွက်၊ အဆက်ဆက်လျှင်၊ သက်သက်ဒုက္ခ၊ အမှန်ရသည်၊ ဘဝဤကိုယ် ဖြစ်တုံးတည်း'–ဟူသော ၁၃–ပုဒ်မြောက် ပျို့လင်္ကာ၏အဆုံးပိုင်းကို ရေးသား၍ပြီးစီးခဲ့လေသည်။[*၃]

မည်သည့်ရက်တွင် ဘင်္ဂလားပြည်နယ် ကာလကတ္တားမြို့သို့ ရန်ကုန်မြို့မှထွက်သည်ကို အတိအကျမသိရသော်လည်း၊[*၄] ရန်ကုန်မြို့မှ (၃၆)မိုင်အကွာရှိ မီးပြမှသည် ဘင်္ဂလားဆိပ်သို့ မိုင်(၇၀၀)ကျော်လိုက်ပါရမည်ဖြစ်ရာ၊ ပင်လယ်ရေပြင်၌ကြာခဲ့ရသောရက်ကို ဆရာတော်ဘုရား

---

*၁ ဤ ပဋိစ္စသမုပ္ပါဒ်လင်္ကာ (၁၃)ပုဒ်တို့ကို လယ်တီဆရာတော်ကြီး၏ဂန္ထိရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ ၈၁–၈၇)၌ရှုပါ။

*၂ လယ်တီဆရာတော်ကြီး၏ဂန္ထိရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၈၁)။

*၃ လယ်တီဆရာတော်ကြီး၏ ပဋိစ္စသမုပ္ပါဒ်ဒီပနီ။ ၁၉၂၄–ခုနှစ်။ (စာမျက်နှာ–၄၃)။

*၄ လယ်တီဆရာတော်ကြီးသည် ၁၂၅၇–ခုနှစ်၊ တပို့တွဲလပြည့်ကျော် ၃–ရက် (၃၁၊ ၁၊ ၁၈၉၆)တွင် မန္တလေးမြို့မှ ရန်ကုန်မြို့သို့ မီးရထားဖြင့်ကြွတော်မူခဲ့ပြီး၊ အိန္ဒိယသို့ခရီးကြွရန်အတွက် ရန်ကုန်မြို့တွင် တပို့တွဲတစ်လလုံး (အေဒီ–၁၈၉၆၊ ဇန်နဝါရီ/ဖေဖော်ဝါရီ)စောင့်ဆိုင်းနေထိုင်ခဲ့ပြီး၊ တပေါင်းလဆန်း (ဖေဖော်ဝါရီ၊ ၁၈၉၆–ခန့်)မှ အိန္ဒိယသို့ ကြွတော်မူရဟန်ရှိသည်။

ကြီးက– 'ရန်ကုန်မှ ပင်လယ်ကူးသင်္ဘောသို့တက်စီး၍ ဘင်္ဂလားမြို့သို့ကူးရာ လေးည, ငါးရက် ပတ်လုံး ကမ်းမမြင်သောပင်လယ်အပြင်မှာ'ဟု ပဋ္ဌိစ္စသမုပ္ပါဒဒီပနီကျမ်း၌ ရေးသားထားတော်မူပေသည်။[*၁]

ထို လေးည,ငါးရက်ကာလပတ်လုံး ပင်လယ်ကူးသင်္ဘောပေါ်၌ လယ်တီဆရာတော်ကြီးသည် မီးရထားပေါ်တွင်ရေးသားခဲ့သော ပဋိစ္စသမုပ္ပါဒ်လင်္ကာ ၁၃–ပုဒ်၏အဖြေကိုရေးသားလျက် လိုက်ပါတော်မူခဲ့ပေသည်။ ပင်လယ်ကူးသင်္ဘောပေါ်တွင်ရေးသားတော်မူခဲ့သော ထိုပဋိစ္စသမုပ္ပါဒ် လင်္ကာအဖြေကို ပဋိစ္စသမုပ္ပါဒ်ဒီပနီအကျဉ်း–ဟုခေါ်ဆိုခဲ့ကြသည်။[*၂]

ဤသို့ ရန်ကုန်မြို့မှ ဘင်္ဂလားမြို့သို့သွားသော ပင်လယ်ကူးသင်္ဘောကြီးပေါ်တွင် လယ်တီတောရဆရာတော်ကြီးသည် အချိန်ကိုအချည်းနှီးမဖြစ်စေရန် သင်္ဘောကြီးတစ်နေရာ၌ ခက်ခဲနက်နဲလှစွာသော ပဋိစ္စသမုပ္ပါဒ်တရား၏အနှစ်သဘောတရားတို့ကို ရှင်းလင်းရေးသားနေတော်မူပုံကို အာရုံထင်ထင်မျက်မြင်ဖူးရသူတို့မှာ ရှေးရှေးသာသနာဝင်၌ သီရိလင်္ကာကျွန်းတွင် ဗြာဟ္မဏတိဿသူပုန်ကြီး(၄၃–၂၅ ဘီ၊စီ)ထ,စဉ်က သီရိလင်္ကာမှ ရဟန္တာမထေရ်အပါး–၇၀၀ တို့ကို သိကြားမင်း၏အစီအမံဖောင်ကြီးဖြင့် မဇ္ဈိမဒေသဘက်သို့ကူးရန်ပင့်ဆောင်ရာဝယ် ရဟန္တာမထေရ်ကြီးတို့သည် ပင်လယ်ခရီးလမ်း၌ ကာလကိုအချည်းနှီးမဖြစ်စေရန် ပင်လယ်ပြင်ဤခရီးတွင် သီဟိုဠ်ဘာသာဖြင့် အဋ္ဌကထာသစ်ကြီးတစ်စောင်ပြုစုခဲ့ကြသည်ကို သတိရစရာပင်။ (ဝိ၊ဋ္ဌ၊၃။၉၊ ဝိ၊ဋ္ဌ၊၄။၇,, သာရတ္ထ၊ ၁။၂၀။)။ ထိုသို့ ဖောင်ပေါ်၌ရေးသားခဲ့သောအဋ္ဌကထာကြီးကို မဟာပစ္စရီအဋ္ဌကထာ–ဟုခေါ်တွင်ခဲ့သလို၊ ယခု လယ်တီတောရဆရာတော်ကြီး၏ ပဋိစ္စသမုပ္ပါဒ်လင်္ကာအဖြေ(အကျဉ်း)သည်လည်း ပဋိစ္စသမုပ္ပါဒဆိုင်ရာ မဟာနာဝါသံဝဏ္ဏနာတစ်မျိုးဟုခေါ်ဆိုနိုင်ပေလိမ့်မည်။

မဇ္ဈိမဒေသ၌ ခရီးသွားရပုံနှင့်စပ်လျဉ်း၍ လယ်တီဆရာတော်ကြီးက ကာလကတ္တားမြို့ ဟောင်းရာ[*၃] ဘူတာရုံမှ (၂၉၂)မိုင်ဝေးသော ဂယာ[*၄] မြို့ကိုကြွပြီး၊ ထိုမှတစ်ဖန် (၇)မိုင်ခန့်ဝေးကွာသော မဟာဗောဓိပင်ရှိရာသို့ကျောက်လမ်းအတိုင်းလှည်းဖြင့်ကြွတော်မူရသည်။ လမ်းခရီးတွင် လယ်ကွင်းများကိုဖြတ်သန်းသွားလေရာ၊ တစ်နေရာသို့ရောက်သော် ဟိန္ဒူကလေးတစ်စုတို့သည် မြေခွေးတစ်ကောင်၏နောက်မှ 'စင်ဂါလီ–စင်ဂါလီ'ဟု ဟစ်အော်လျက်လိုက်နေကြပုံကို ဆရာတော်ကြီးမြင်တော်မူ၏။ ထိုအခါ အတူလိုက်ပါလာသော နောက်ပါသံဃာတို့နှင့် ဒကာများအား–

---

*၁ လယ်တီဆရာတော်ကြီး၏ပဋိစ္စသမုပ္ပါဒဒီပနီကျမ်း။ ၁၉၂၄–ခုနှစ်။ (စာမျက်နှာ–၄၃)။

*၂ ယင်း။ (စာမျက်နှာ–၄၃)။

*၃ Howrah

*၄ Gaya

'စင်္ဂါလီဆိုတာ ပါဠိ မာဂဓစကားပေါ့ကွဲ့၊ မဂဓတိုင်းသားကြတော့ မာဂဓစကား နဲ့ ပြောကြတယ်ကွဲ့၊ မြေခွေးကို သူတို့စကားနဲ့ 'စင်္ဂါလီ'လို့ခေါ်တယ်၊*၁ ဒါကြောင့် သူတို့ မာဂဓစကားများနဲ့ ဒို့ဗမာတိုင်းသားတွေကိုပြောလို့ နားဝင်မှာမဟုတ်ဘူး၊ ဒို့ဗမာက ဗမာစကားနဲ့မှ'ဟု မိန့်တော်မူပါသည်။*၂

လယ်တီဆရာတော်ကြီးသည် မဟာဗောဓိပင်ကိုဖူးမြော်တော်မူပြီးနောက် မဟာဗောဓိပင် ကြီးမှ အကိုင်းတစ်ကိုင်းကို ဘုရားစောင့်များထံမှရသဖြင့် တပည့်ဦးသောဘဏအား တာဝန် ပေး၍ ထိန်းသိမ်းစောင့်ရှောက်ယူဆောင်စေခဲ့ပါသည်။*၃

လယ်တီတောရဆရာတော်သည် ဗုဒ္ဓဂယာမဟာဗောဓိစေတီတော်၌ စိတ်ရှိသမျှ ရှိခိုးပူဇော် ကန်တော့တော်မူပြီး မြတ်စွာဘုရားရှင်၏ လူနတ်ပြဟ္မာသတ္တဝါခပ်သိမ်းတို့အား အသက်ကိုပဓာန မထားဘဲ ဝဋ်ဒုက္ခတွင်းမှကယ်တင်သော မဟာကရုဏာတော်ကိုကြည်ညိုလှသည်ဖြစ်၍ ဘုရား ရှင်၏လမ်းစဉ်အတိုင်း သတ္တဝါတို့ကို ကယ်တင်နိုင်သမျှ ကယ်တင်စေခြင်းငှာ 'ယနေ့မှစ၍ ကုန်းသတ္တဝါတို့၏အသားကို စားသောက်ခြင်းမှရှောင်ကြဉ်ပါမည်ဘုရား'ဟူသော အဓိဋ္ဌာန်စကား လျှောက်ထားတော်မူခဲ့ပါသည်။*၄

ဆရာတော်ကြီးသည် မဟာဗောဓိအနီးတစ်ဝိုက်၌တည်ရှိနေသော သတ္တဋ္ဌာနတို့ကို အထူး တလည် ရှုကြည့်ဖူးမြော်ခဲ့ပေသည်။ ဤသို့ ဂရုပြုကြည့်ရှုလေ့လာခဲ့ခြင်းကြောင့် နောင်အခါတွင် 'ဘုန်းရောင်ထွန်းထိန်–' အစချီသော သတ္တဋ္ဌာနဘုရားရှိခိုးလင်္ကာ(၇)ပုဒ်*၅ ကို ပိုင်နိုင်ပီသစွာ ရေးစပ်တော်မူနိုင်ခြင်းဖြစ်သည်။ ဘုရားရှင်ရွှေခွက်မျှောတော်မူရာ နေရဉ္ဇရာမြစ် သုပ္ပတိတ္ထ ရေချိုးဆိပ်သို့လည်းကောင်း၊ သူဌေးသမီးသုဇာတာ ဃနာနို့ဆွမ်းကပ်ရာ သေနာနိဂုံးရွာသို့လည်း ကောင်း၊ ထိုမှတစ်ဖန် ဥရုဝေလကဿပညီနောင်တို့နေရာ ဥရုဝေလတောအုပ်သို့လည်းကောင်း၊ ဘုရားရှင် ဒုက္ကရစရိယာကျင့်တော်မူရာ ဂယာသီသတောင်(ဒုရ်ကရံတောင်)သို့လည်းကောင်း ကြွတော်မူခဲ့ပါသည်။

---

*၁ ပါဠိဘာသာ၌ မြေခွေးကို 'သိင်္ဂါလ'၊ မြေခွေးမကို 'သင်္ဂါလီ'ဟုခေါ်ဆိုပါသည်။ ဦးဟုတ်စိန်၏ ပါဠိ–မြန်မာအဘိဓာန်၊ စတုတ္ထပိုင်း။ အစိုးရပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၉–ခုနှစ်။ (စာမျက်နှာ–၁၀၃၃)။

*၂ ဤအချက်ကို ဆရာကြီးဦးလှတင်(လယ်တီဦးဝဏ္ဏိတ) ပြောပြခြင်းဖြစ်ပါသည်။

*၃ ဘုန်းကြီးဦးသောဘဏသည် ဤမဟာဗောဓိကိုင်းကို ခရီးလမ်းတစ်လျှောက်ထိန်းသိမ်းယူခဲ့ပြီး မြန်မာနိုင်ငံသို့ရောက် လျှင် ဝါးခယ်မမြို့ ဆွမ်းဒကာမတစ်ဦး၏ အိမ်၌ နှစ်နှစ်ခန့်သိမ်းဆည်းပြီးမှ ထိုမဟာဗောဓိပင်ကိုင်းကို ပန်းပုဆရာထံအပ်၍ ဒက္ခိဏာသာခါရုပ်ပွား ၃–ဆူ ထုလုပ်ခဲ့ပါသည်။ တစ်ဆူကို လယ်တီဆရာတော်ဘုရားသို့ဆက်သ,ရာ ဆရာတော်ကြီးသည် ဘဝနတ်ထံစံလွန်သည့်တိုင် မိမိကြွသွားရာသို့ မကွဲမကွာပင့်ဆောင်သွားလျက် ကိုးကွယ်ထားပါသည်။ ကျန်နှစ်ဆူတွင် တစ်ဆူကို ဦးသောဘဏက မိမိကိုးကွယ်ရန်ပူဇော်ထားပြီး၊ ကျန်တစ်ဆူကို ဝါးခယ်မရှိ ဆွမ်းအမအိမ်၌ ပူဇော်ထားခဲ့ ပါသည်။

*၄ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၃၉)။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင် ကျော်များ။ (စာမျက်နှာ–၁၀၃)။

*၅ လယ်တီဆရာတော်ကြီး၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ ၁၃၀–၁၃၂)။

ဤသို့ မဟာဗောဓိအရပ်၌နေစဉ်အတွင်း မဟာဗောဓိပင်ကြီး၏အနောက်မြောက်ထောင့် ကုန်းပေါ်တွင် သက္ကရာဇ်-၁၂၃၆(အေဒီ-၁၈၇၄)ခုနှစ်က ဆောက်လုပ်ထားသော ပဥ္စမသင်္ဂါယနာ တင် မင်းတုန်းမင်းတရားကြီး၏ကုသိုလ်တော်တိုက်ဇရပ်ရှိနေပေရာ ထိုဇရပ်မှာပင် ခေတ္တခဏ သီတင်းသုံးတော်မူခဲ့ရလေသည်။

လယ်တီဆရာတော်ကြီးသည် ဂယာမှ ဗာရာဏသီမြို့သို့ မီးရထားဖြင့်လိုက်ပါခဲ့ပြီး ဗာရာ ဏသီ ကန်တော်မင်ဘူတာသို့ရောက်သည်။ ထိုမှတစ်ဆင့် (၇-မိုင်)ခန့် မြင်းရထားဖြင့်ကြွရာ ဘုရားရှင် ဓမ္မစကြာတရားတော်ကိုဟောကြားတော်မူခဲ့သည့် ဆာနသ်*၁ ခေါ် မိဂဒါဝုန်တောသို့ ရောက်ခဲ့သည်။ မိဂဒါဝုန်ကျောင်းတော်မရောက်မီတွင် လမ်း၏ဝဲဘက်၌ ဘုရားရှင်နှင့်ပဉ္စဝဂ္ဂီငါးဦးတို့ ရှေးဦးတွေ့ဆုံသောနေရာတွင်တည်ထားသော ကျောက်ခန္ဓီ*၂ စေတီတော်ကို ဝင်ရောက် ဖူးမြော်သေးသည်။ ထိုမှ ဘုရားရှင်ပထမဝါကိုဆိုတော်မူရာ နန္ဒိယသူဌေးနှင့် ကုမာရဒေဝီမိဖုရားမှ ဆောက်လှူထားခဲ့ကြသော ဂန္ဓကုဋီတိုက်ကြီးနှင့် ကျောင်းတော်ရာကို ဝင်ရောက်ကြည့်ရှုတော်မူခဲ့ သည်။ ဂန္ဓကုဋီတိုက်အနီး၌ အသောကမင်းတရားကြီး၏အထိမ်းအမှတ် စိုက်ထူထားအပ်သော ကျောက်စာတိုင်ကြီးရှိသည်။ ထိုမှ တောင်ဘက်သို့သွားလိုက်သောအခါ ဓမ္မစကြာတရားကို ဟောတော်မူရာ ဓမ္မစကြာ(ဓမ္မက်)*၃ စေတီသို့ရောက်ပါသည်။ ဆရာတော်ကြီးသည် ဓမ္မစကြာ စေတီတော်တွင် ဓမ္မစကြာတရားတော်ကို မိမိရေးသားသော ဓမ္မစကြာပါဠိအနက်နှင့် တွဲဖက် ဆင်ခြင်၍ ရွတ်ဆိုပူဇော်ပြီး ဖူးမြော်တော်မူခဲ့ပါသည်။

လယ်တီတောရဆရာတော်ကြီးသည် ဘင်္ဂလားသို့ကြွတော်မူစဉ်အတွင်း ဘုရားဖူးခြင်း ကိစ္စကို ပဓာနထားပြီး၊ ကျန်အချိန်များတွင် ဗဟုသုတအလို့ငှာ မိမိသိလိုသမျှကိုလည်း လိုက်လံ ကြည့်ရှု မေးမြန်းစုံစမ်း မှတ်သားခဲ့ပါသည်။ ပမာအားဖြင့် လယ်တီဆရာတော်ကြီးသည် ရာဇဂြိုဟ်မြို့သို့လည်းရောက်ရှိ၍ မြန်မာလူမျိုးတို့၏ မူလဒေသသည် အိန္ဒိယနိုင်ငံ ဖြစ်နိုင် မဖြစ်နိုင် မေးမြန်းပုံတို့ကို 'ဗုဒ္ဓဘာသာနှင့် ထာဝရဗြဟ္မာကျမ်း'၌-

> 'မြန်မာသက္ကရာဇ်-၁၂၅၇(အေဒီ-၁၈၉၆)ခုနှစ်တွင် မာဂဓတိုင်း ရာဇဂြိုဟ်ပြည်သို့ ဘုန်းကြီးကိုယ်တိုင်ရောက်ရှိ၍ ထိုအရပ်သားပညာရှိကြီးများနှင့်တွေ့ဆုံကြရာ၊ မြန်မာ လူမျိုးတို့သည် ဇာတ်ပျက်သဖြင့် အိန္ဒိယ မဇ္ဈိမဒေသမှ အရှေ့ဘက်သို့နှင်ထုတ် ထွက်သွားရသော အိန္ဒိယ မဇ္ဈိမအနွယ်အဆက်ဖြစ်ကြောင်းပြောဆိုသည်ကို ကြားသိ ခဲ့ရသည်'ဟု ရေးထားပေသည်။*၄

---

*၁ Sarnath

*၂ Chaukhandi

*၃ Dhamekh

*၄ လယ်တီဆရာတော်ကြီး၏ ဗုဒ္ဓဘာသာနှင့် ထာဝရဗြဟ္မာကျမ်း။ သုဓမ္မာစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၁၄-ခုနှစ်၊ (စာမျက် နှာ၁-၃၈)။

ကာလကတ္တားမြို့တွင် ခေတ္တနားနေစဉ်ကလည်း မြို့ပေါ်ရှိဆေးရုံ၊ ဥယျာဉ်-စသော ကြည့်ရှုစရာတို့ကို လှည့်လည်ကြည့်ရှုကာ ဗဟုသုတရှာမှီးတော်မူခဲ့ကြောင်းကို 'ဗုဒ္ဓဘာသာနှင့် ထာဝရပြေဟ္မာကျမ်း'၌ပင်-

'မြန်မာသက္ကရာဇ် -၁၂၅၇ (အေဒီ-၁၈၉၆) ခုနှစ်တွင် ဘုန်းကြီးကိုယ်တိုင် ဘင်္ဂလားမြို့သို့ရောက်၍ ဘင်္ဂလား(ကာလကတ္တား)မြို့ရှိ ဆေးရုံတော်ကြီးများ၌ ဆေးပညာကိုသင်ကြား၍နေကြကုန်သော ဆေးပညာရှိကြီးများသည် ဤအိန္ဒိယ တိုင်းမှ အရင်းမူလဖြစ်ကြောင်း၊ ဥရောပတိုက်တိုင်းများ၌ ယခုအခါရှိနေကြသော ဗေဒင်ပညာ၊ လောကဓာတ်ပညာများသည် ဤအိန္ဒိယနိုင်ငံမှ နည်းဟောင်း မူဟောင်းတို့ကို တွေ့ရှိကြ၍ ဉာဏ်ပညာပွားများကြကြောင်း ဆရာဝန်ကြီးတို့ မိန့်ဆိုကြကုန်သည်ဟု ပြောဆိုကြသည်ကို ကိုယ်တိုင်ကြားသိခဲ့ရသည်'ဟု ရေးသား ထားတော်မူပါသည်။*၁

အိန္ဒိယနိုင်ငံ၌ တပို့တွဲလ၊ တပေါင်းလ (အေဒီ ၁၈၉၆-ခုနှစ်၊ဇန်နဝါရီ/ဖေဖော်ဝါရီ/မတ်) လှည့်လည်သီတင်းသုံးပြီး၊ တန်ခူးလဆန်း ၁-ရက်(အေဒီ-၁၃၊ မတ်လ၊ ၁၈၉၆)တွင် ကာလကတ္တား ဆိပ်ကမ်းမှ ပြန်လည်ထွက်ခွာတော်မူရာ၊ တန်ခူးလဆန်း ၅-ရက်(အေဒီ-၁၇၊ မတ်လ၊ ၁၈၉၆)တွင် ရန်ကုန်မြို့သို့ရောက်ရှိတော်မူလေသည်။

## ကွမ်းခြံကုန်း*၂ သို့ ကြွတော်မူခြင်း

လယ်တီတောရဆရာတော်ကြီးသည် မဇ္ဈိမဒေသမှပြန်လည်ဆိုက်ရောက်တော်မူလျှင် မုံရွာမြို့ လယ်တီတိုက်သို့ တန်းတန်းမတ်မတ်ကြွတော်မမူဘဲ ဘုရားဖူးခရီးစဉ်တစ်လျှောက်၌ ဖြစ်ပေါ် နေခဲ့သော သဒ္ဓါတရားထက်သန်မှုအဟုန်ကြောင့်*၃ 'ယခုလို သဒ္ဓါတရားထက်ထက်သန်သန်ကြီး ဖြစ်နေသောအချိန်အခါမျိုးတွင် ဗုဒ္ဓါနုဿတိဘာဝနာအစဖြာသည့် ကမ္မဋ္ဌာန်းဘာဝနာလေးဆယ်

---

*၁ လယ်တီဆရာတော်ကြီး၏ ဗုဒ္ဓဘာသာနှင့် ထာဝရပြေဟ္မာကျမ်း။ သုဓမ္မာစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၁၄-ခုနှစ်။ (စာမျက်နှာ-၃၉)။

*၂ ထိုခေတ်က 'ကွမ်းခြံကုန်း'ကို 'တော်ပလွဲကွမ်းခြံကုန်း'ဟုသုံးနှုန်းသည်။ သမိုင်းဝင်ကျိုက်ဒေးကနောင်(ယခုအခေါ်-ဝစ်ပင်ကုန်းဘုရား၊ ဒေးဒနောဘုရား) တည်ရှိသည်။ မောင်ရွှေနော်၏ မွန်ရာဇဝင်နှင့်စေတီတော်သမိုင်းပေါင်းချုပ်။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၃၁-ခုနှစ်။ (စာမျက်နှာ-၇၁)။ ကွမ်းခြံကုန်းသည် ဒလတောကြီးတန်း၏ တောင်ဘက်ခြမ်း၊ ရန်ကုန်၏အနောက်တောင်ဘက်အစွန်၌ရှိပြီး၊ ရှေးယခင်က ရန်ကုန်မှကွမ်းခြံကုန်းသို့ ကားလမ်းမရှိဘဲ သင်္ဘောဖြင့်သာသွားရသည်။ ကွမ်းခြံကုန်းကို အင်္ဂလိပ်အစိုးရလက်ထက်က သန်လျင်ခရိုင်အတွင်းသွတ်သွင်းထားသည်။ J.S. Furnivall' Syriam District Gazetteer, 1914. Government Press, Rangoon, reprint 1963. Page-203. ယခု ရန်ကုန်တိုင်း တောင်ပိုင်းခရိုင်၌ပါဝင်ပြီး၊ ရန်ကုန်တစ်ဖက်ကမ်း ဒလမှဖြစ်စေ၊ လှိုင်သာယာ တစ်ဖက်ကမ်း ကံဘဲ့လမ်းဆုံမှဖြစ်စေ ကားလမ်းဖြင့်လွယ်လင့်တကူသွားနိုင်ပြီဖြစ်သည်။

*၃ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ-၁၀၃)။

ရန်ကုန်တိုင်း၊ကွမ်းခြံကုန်းမြို့နယ်ရှိ ခမ္မိကာရုံခေါ်ကွင်းကျောင်း





လယ်တီဆရာတော်ကြီး၀ါကပ်တော်မူရာ ဆပုဂံတောရရှိမူလစေတီနှင့် ယခုပြုပြင်ထားပုံ

တို့ကို သမထာယာနိကလမ်းမကြီးအတိုင်း စမ်းသပ်အားထုတ်လိုက်ရလျှင် အလွန်မှအကျိုးများပေလိမ့်မည်'ဟု အကြံအစည်ဖြစ်တော်မူခဲ့သည်။

ထိုသို့ အကြံဖြစ်နေတော်မူစဉ် တပည့်ရင်းဦးသူရိန္ဒက မိမိသီတင်းသုံးရာ ကွမ်းခြံကုန်းရွာကြီးသည် တောရမကင်းသောရွာကြီးဖြစ်ပြီး၊ *၁ လွန်ခဲ့သော ၁၃–နှစ်ခန့်က သင်္ဂဇာဆရာတော်ဘုရားကြီးသည်လည်း အိန္ဒိယနိုင်ငံ မဟာဗောဓိမှအပြန်တွင် မန္တလေးမြို့ သင်္ဂဇာကျောင်းသို့ပြန်မကြွဘဲ ကွမ်းခြံကုန်းအနီးရှိ ဒလတောကြီးတန်း ကျိုက်ပါးတောရ*၂ တွင် တောရဆောက်တည်ဖူးပါကြောင်း–စသည်ဖြင့်လျှောက်ထားပါတော့သည်။

ထိုသောအခါ လယ်တီတောရဆရာတော်ကြီးက တပည့်ဦးသူရိန္ဒ၏စကားကို သဘောကျနှစ်သက်၍– 'ငါတောရဝင်လိုသည်၊ နှစ်များစွာကပင် တောရဝင်တိုင်း ဒကာများလိုက်လာ၍ ပျက်ခဲ့ရသည်၊ ယခု ဤနေရာသည် မုံရွာမှဒကာများနှင့်ဝေးကွာသောအရပ်ဖြစ်၍ အနှောင့်အယှက်ကင်းသဖြင့် တောရဝင်ရလျှင်သင့်မည်'ဟု စိတ်အကြံဖြစ်တော်မူလျက် မြန်မာပြည်သို့ပြန်ရောက်ပြီး သုံးရက်မြောက်သောနေ့ သက္ကရာဇ် ၁၂၅၈–ခုနှစ်၊ တန်ခူးလဆန်း ၈–ရက် (အေဒီ–၂၀၊ မတ်လ၊ ၁၈၉၆)နေ့ ဒလတောကြီးတန်းရှိ ကွမ်းခြံကုန်းသို့ ကြွတော်မူခဲ့လေသည်။

လယ်တီတောရဆရာတော်ကြီးကို တပည့်ဖြစ်သူဦးသူရိန္ဒက မိမိသီတင်းသုံးရာ ကွမ်းခြံကုန်းရွာ၏အရှေ့မြောက်ဘက်ရှိ ကွင်းကျောင်း*၃သို့ပင့်ဆောင်ခဲ့သည်။ ကွင်းကျောင်းသည် ကွမ်းခြံကုန်းရွာအပြင်၌ရှိသော်လည်း ရွာနှင့်နီးလွန်း၍ တောရ–ဟုမဆိုနိုင်။ သို့ပါ၍ လယ်တီတောရဆရာတော်ကြီးက ကွမ်းခြံကုန်းမှသည် ကော့မှူးအကြားရှိ ဒလတောကြီးတန်းအတွင်း တောရ

---

*၁ တောရမကင်း–ဆိုသည်မှာ ကွမ်းခြံကုန်းရွာ၏ မြောက်ဘက်ခြမ်းရှိ ဒလတောကြီးတန်းကိုရည်ရွယ်၍ လျှောက်ထားခြင်းဖြစ်သည်။ ထိုဒလတောကြီးတန်းကို နောင်အခါ တွံတေးတောကြီးတန်းဟုလည်းခေါ်သည်။ ဤနေရာ၌ ဒလ–ဆိုသည်မှာ ပုဂံခေတ်ကတွင်ခဲ့သောအမည်ဖြစ်ပြီး၊ ယခု ရန်ကုန်တစ်ဖက်ကမ်းရှိ ဒလနေရာကိုမဆိုလိုဘဲ၊ ရှေးက 'ကွမ်းဒေး' (မွန်ဘာသာ။ တောင်ကုန်းရွာ)ဟုခေါ်သော တွံတေးမြို့ကိုဆိုလိုသည်။ ကွမ်းဒေး > တွမ်းတေး > တွံတေး။ မောင်ရွှေနော်၏ မွန်ရာဇဝင်။ ၁၉၃၁–ခုနှစ်။ (စာမျက်နှာ–၇၁)။ ပုဂံခေတ်က ရာဇသင်္ကြံအမတ်ကြီးအားပို့သော ဒလသည် တွံတေးဒလဖြစ်သည်။ မှန်နန်း၊ ၁။ ၁၉၉၂–ခုနှစ်။ (စာမျက်နှာ–၃၃၉)။ ယခု ရန်ကုန်တစ်ဖက်ကမ်းရှိ ဒလကို ရှေးက 'မိုင်းသူ'ဟုခေါ်ခဲ့ပြီး၊ အေဒီ ၁၇၉၅–ခုနှစ်ခန့်တွင် ဒလမြို့ဝန်က ရုံးလာစိုက်သောကြောင့် 'ဒလ'ဟုတွင်ခဲ့ခြင်းဖြစ်သည်။ သတင်းစာဆရာဦးသိမ်းမောင်၏ ဒလ–ကွမ်းဒေး–ဟိုရှေးရာဇဝင်(ဆောင်းပါး)။ သွေးသောက်မဂ္ဂဇင်း၊ ၁၉၅၃–ခုနှစ်၊ ဇူလိုင်လ။ (စာမျက်နှာ ၃၉–၄၂)။ ဦးသိမ်မောင်၏ ရာဇသင်္ကြံ။ ဖွဲ့စာပေရိပ်မြုံ၊ ရန်ကုန်မြို့။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ ၃–၂၅)။

*၂ နောင် ကျိုက်ပတ်တောရဟုတွင်သည်။ ကွမ်းခြံကုန်းမြို့၏မြောက် တော်ပုလွဲချောင်း၏တစ်ဖက်ကမ်း၌ ကျိုက်ပတ်တောရတည်ရှိသည်။ ထိုနေရာတွင် သက္ကရာဇ်–၁၂၄၅ (၁၈၈၃)ခုနှစ်က သင်္ဂဇာဆရာတော်သမုတ်ခဲ့သော သိမ်လည်းရှိသည်။ မောင်သန်းလွင်(မြန်မာစာ)၏ ကွမ်းခြံကုန်းမြို့နယ်မှ သမိုင်းဝင်သင်္ဂဇာတောရ(ဆောင်းပါး)။ ကျွန်းနမြေစာပေမဂ္ဂဇင်း။ ၁၉၉၃–ခုနှစ်။ ဇန်နဝါရီလ။ (စာမျက်နှာ ၃၄–၃၇)။

*၃ ကွင်းကျောင်း၏ မူလဆရာတော်မှာ ကြံခင်းဆရာတော်ဖြစ်ပြီး၊ ကြံခင်းဆရာတော်ကပင် ဦးသူရိန္ဒအား ဤကွင်းကျောင်းကိုလွှဲပြောင်းပေးခဲ့ခြင်းဖြစ်သည်။ ဦးသူရိန္ဒနေရန်ကျောင်းကိုကား ဦးစံလှဆိုသူဒကာက ဓမ္မိကာရုံအမည်ဖြင့်ဆောက်လုပ်ပေးခဲ့သည်။ ဓမ္မိကာရုံကျောင်းတွင်– (၁) ဦးသူရိန္ဒ၊ (၂) လယ်တီဦးကောသလ္လ၊ (၃) ဦးစာရိန္ဒ၊ (၄) ဦးဝိသုဒ္ဓနှင့် (၅) ဦးဇဝနတိက္ခ(လက်ရှိ)တို့ အစဉ်အဆက်ကျောင်းထိုင်သီတင်းသုံးခဲ့ကြသည်။

ဆောက်တည်၍ကောင်း လောက်သောနေရာ၊ တောတောင်လျှိုမြောင်စိမ့်စမ်းတို့ ဝန်းရံလျက် တည်ရှိသောနေရာ-စသည့်နေရာမျိုးကိုရှာဖွေရွေးချယ်ရန် အမိန့်ရှိတော်မူပါသည်။

ဤသို့ ကွမ်းခြံကုန်းအနီးရှိ လယ်တီတောရဆရာတော်ကြီးတရားအားထုတ်ရန် တောရတို့ကို ရွေးချယ်ကြည့်ရှုနေစဉ်မှာပင် ကွမ်းခြံကုန်းနှင့်ကော့မှူးအကြားရှိ ဆပုဂံတောရသို့ဝင်ရောက်ရန် အကြောင်းတစ်ရပ်ပေါ်လာလေသည်။ ထိုအကြောင်းမှာ အခြားမဟုတ်၊ ဆပုဂံရွာ၌ဖြစ်ပေါ်ခဲ့သော စူဠဂဏ္ဍိအယူနှင့်စပ်သော လျှောက်ထားလွှာတစ်စောင်သည် လယ်တီတောရဆရာတော်ကြီး လက်တော်သို့ ရောက်ရှိလာသောကြောင့်ပင်ဖြစ်သည်။

## ဆပုဂံ*၁

'ဆပုဂံ'ကို ရှေးက 'လှာပန်ကန်'ဟုခေါ်သည်။*၂ အခြားမှတ်တမ်းများ၌- 'ဆပကာ'၊ 'ဆပ်သင်ကန်'၊ 'သကန်'ဟူ၍အမျိုးမျိုးခေါ်တွင်ခဲ့သည်။*၃ ထိုရွာ၌ ကျိုက်လှာပကံဘွဲ့မည် ရသော ဆံတော်ကြိုးစေတီတည်ရှိနေပါသည်။*၄ ဆပုဂံရွာတွင် ရှေးအခါက စူဠဂဏ္ဍိအယူဝါဒ ကြီးစိုးခဲ့ဖူးပေသည်။ ဆပုဂံရွာအနီး ကသစ်ကုန်းရပ်တွင် စူဠဂဏ္ဍိသံဃာတို့သမုတ်ခဲ့သော အရိမဒ္ဒနာရာမသိမ်ပင်ရှိခဲ့သည်။*၅ စူဠဂဏ္ဍိဂိုဏ်းသည် ဒုဿီလအဖြစ်တည်သောပုဂ္ဂိုလ်ကိုလှူလျှင် အကျိုးမရှိ၊ ထိုပုဂ္ဂိုလ်တို့ကိုချီးမြှောက်သောဒကာတို့သည်ပင် သာသနာကို ကူညီ၍ဖျက်ဆီးကြ သောကြောင့် ယင်းတို့သေလျှင် အပါယ်သို့လားရကြောင်း ပြောဟောသောဂိုဏ်းဖြစ်သည်။*၆ ထို့ပြင် စူဠဂဏ္ဍိဂိုဏ်းဝင်တို့က မိမိတို့သည် သံဃာဟိုင်း(တစ်နည်း)ဝါဝါမြင်တိုင်း သောကော ရောကော မကိုးကွယ်၊ သီလသိက္ခာရှိသူကိုသာ ရွေးချယ်တတ်၍ အပါယ်လမ်းပိတ်ပြီ၊ စိတ်ချရပြီ- ဟူ၍လည်း မိမိတို့ဂိုဏ်းကိုအမွှမ်းတင်ကာပြောဆိုကြသည်။ ဤသို့ မိမိတို့ကိုယ် အပါယ်လမ်း

*၁ ဆပုဂံသည် ရန်ကုန်တိုင်း **တောင်ပိုင်းခရိုင် ကွမ်းခြံကုန်းမြို့နယ်အတွင်း ပါဝင်သည်။**

*၂ **မောင်ရွှေနော်၏** ပွန်ရာဇဝင်။ ၁၉၃၁-ခုနှစ်။ (စာမျက်နှာ-၇၁)။

*၃ ဒေါက်တာမြင့်လှိုင်၏ **ဒလတောကြီးတန်းဒေသရှာပုံတော်။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၂၀၀၇-ခုနှစ်။** (စာမျက်နှာ- ၁၃)။

*၄ မြန်မာလို 'ပုကန်ကွင်းဘုရား' ဟုဖြစ်သည်။ ပုကန်ပင်များအကြား၌ တည်ရှိသောကြောင့်ဖြစ်သည်။ မောင်ရွှေနော်၏ မွန်ရာဇဝင်။ ၁၉၃၁-ခုနှစ်။ (စာမျက်နှာ-၇၁)။ ယခု 'ဆ၊ ပုကန်ဘုရား-ဆပုဂံဘုရား'-ဟုခေါ်သည်။

*၅ နောင်အခါ ထိုသိမ်အပါအဝင် အရိမဒ္ဒနာရာမ-ကသစ်ကုန်းကျောင်းတိုက်ဟူသောအမည်ဖြင့် ကျောင်းတိုက်တည်ထောင်ကာ မဟာဒွါရဂိုဏ်း ဓနုဖြူ သဒ္ဓမ္မဇောတိကာရာမ်က ဆရာတော်ဦးကောသလ္လမှအဆင့်ဆင့် ယခု ဦးစန္ဒောဘာသတိုင်အောင် အုပ်ချုပ်လျက်ရှိသည်။

*၆ သီရိသောဘနထေရ်၏ **သာသနဝံသဒီပနီ။ ၁၃၃၆-ခုနှစ်။ (စာမျက်နှာ-၃၈၆)။ စူဠဂဏ္ဍိဆိုင်ရာစာတို့ကို** ဘိုးတော်မင်း လက်ထက်(အေဒီ ၁၇၈၂-၁၈၁၉)၊ သက္ကရာဇ် ၁၁၆၀-ပြည့်နှစ် ဒုတိယဝါဆိုလဆန်း ၅-ရက် (အေဒီ-၁၇၊ နှစ်၊ ၁၇၉၈) ကပင် မီးတိုက်၍၊ ထိုဂိုဏ်းဆိုင်ရာ **အရှင်ဣန္ဒသာရကို ဝတ်ဖြူလဲစေရန်** အမိန့်ပြန်တမ်းထုတ်ပြန်ခဲ့ပြီးဖြစ်သည်။ **ခဝဲတောင်** ဆရာတော်**၏** မုဟတ္တိမိရအဘိတပကျမ်း။ British Burma News Press, Rangoon. ၁၂၇၈-ခုနှစ်။ (စာမျက်နှာ-**၁၀၂**)။

ပိတ်ပြီဟုချည်းပြောဆိုနေကြသောကြောင့် အခြားပုဂ္ဂိုလ်တို့က လမ်းပိတ်သူ(တစ်နည်း–လိပ်ပန်းသူ။ စူဠ + ဂန္ဓိ = လိပ် + ပန်း > လမ်းပိတ်) ဟူ၍ခေါ်ဆိုကြရာမှ ထိုအယူရှိသူတို့ကို 'စူဠဂဏ္ဍိ'ဟု တွင်ခဲ့ခြင်းဖြစ်သည်။[*၁]

ဆပုဂံမှလျှောက်ထားလွှာ

ဆပုဂံရွာ၌ဖြစ်ပေါ်ခဲ့သော ထိုစူဠဂဏ္ဍိပြဿနာကို သင်္ဂဇာဆရာတော်ကြီးလည်း ဖြေရှင်းပေးခဲ့ပြီးဖြစ်သော်လည်း မကျေနပ်ကြသေး။ သို့ပါ၍ ကွမ်းခြံကုန်းသို့ရောက်ရှိနေသော မန္တလေး ရတနာပုံက ပထမစာချဆရာတော်အရှင်ဉာဏထံတော်သို့ ဆပုဂံမှဒကာတို့က ဒါန,သီလနှင့်စပ်၍ ကိုးကွယ်အားထုတ်ရပုံတို့ကိုသိလိုပါကြောင်းလျှောက်ထားလွှာရေး၍ လျှောက်ထားကြလေသည်။ ထိုလျှောက်ထားလွှာကိုဦးဆောင်သူကား ဆပုဂံရွာသား ဒကာစံဦးဖြစ်သည်။ ဒကာစံဦး၏လျှောက်ထားလွှာပါ အဘိယာစကမှာ အောက်ပါအတိုင်းဖြစ်သည်။

ဆပဂံရွာ ဒါယကာမောင်စံဦး အထူးဂါရဝအဘိယာစကတရားဖြင့် လျှောက်ထားတောင်းပန်ပါသည် ကျေးဇူးရှင်လယ်တီဆရာတော်မဟာထေရ်မြတ်ကြီးဘုရား–

လျှောက်ထားရန်မှာ– မြတ်စွာဘုရားသာသနာတော်မြတ်နှင့် တွေ့ကြုံကြိုက်သည့်အားလျော်စွာ ပြုသင့်ပြုထိုက်သောဒါန, ကျင့်သင့်ကျင့်ထိုက်သောသီလတို့ကို ပြုကျင့်လုပ်ကိုင်ကြသည်မှာ လွန်စွာများပြားကြပါသည်။

သို့ပြုကျင့်လုပ်ကိုင်ကြသော်လည်း ဒါနအပြား,သီလအပြား ပေးလှူပုံနည်းလမ်း, ဆောက်တည်ပုံနည်းလမ်းစည်းကမ်းတို့မှာမူ သိရှိကြသူ လွန်စွာနည်းပါးကြပါသည်။

သို့ပါ၍ ဒါနအပြား,သီလအပြား ခြားနားစွာသိမြင်နိုင်ကြစေရန် အကျဉ်းချုပ်ရေးသားပေးသနားတော်မူပါမည့်အကြောင်း ရှိသေစွာလျှောက်ထားတောင်းပန်ပါသည် ကျေးဇူးရှင်မဟာထေရ်မြတ်ကြီးဘုရား။

မောင်စံဦး

ဆပုဂံရွာ[*၂]

လယ်တီတောရဆရာတော်ကြီးသည် ဤကိစ္စကား မငြင်းမပယ်ထမ်းရွက်ရမည့် သာသနာ့ဝန်တာဟူ၍ သိတော်မူသည်နှင့်အညီ ထိုစူဠဂဏ္ဍိပြဿနာဖြစ်ပွားရာ ဆပုဂံအရပ်သို့ ကြွသွားတော်မူပါသည်။

---

*၁ ဦးအရိယမထေရ်၏ ဘုန်းတော်ကြီးဦးသီလတေရုပ္ပတ္တိ။ ၁၉၇၄–ခုနှစ်။ (စာမျက်နှာ–၃၃)။

*၂ လယ်တီဆရာတော်ကြီး၏ လယ်တီပုဏ္ဏာအဖြေပေါင်းချုပ်ကျမ်းကြီး၊ ဒုတိယတွဲ။ မဟာဒွာစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ????–ခုနှစ်။ (စာမျက်နှာ–၁၂၁)။

ဆပုဂ်၌သီတင်းသုံးနေစဉ်အတွင်း ဒကာမောင်စံဦးလျှောက်ထားလွှာနှင့်စပ်၍ ဒါနအကြောင်း၊ သီလအကြောင်းတို့ကို ခွဲခြားရှင်းလင်းဖြေဆိုအပ်သော ဆပုဂ်ပုစ္ဆာအဖြေလွှာခေါ် ဒါနာဒိဒီပနီ*၁ ကို ဆရာတော်ကြီးစီရင်ရေးသားတော်မူခဲ့ပါသည်။ လယ်တီတောရဆရာတော်ကြီး၏ ဒါနာဒိအဖြေလွှာကိုဖတ်ရှုကြရသော ဆပုဂ်ရွာသားတို့သည် လွန်စွာနှစ်သက်အားရကြသဖြင့် လယ်တီတောရဆရာတော်ကြီးအား မိမိတို့ရပ်ရွာတွင် တစ်ဝါတစ်ရှည်သီတင်းသုံးတော်မူပါရန် တောင်းပန်ကြပြန်လေသည်။

ထိုအခါ လယ်တီတောရဆရာတော်ကြီးကလည်း မိမိရောက်ရှိနေသော ဆပုဂ်၏ပတ်ဝန်းကျင်ကိုအကဲခတ်ကြည့်တော်မူသောအခါ ဤဒေသသည် မိမိအလိုရှိနေသောတောအရပ်မျိုးဖြစ်ကြောင်းသိရှိတော်မူလေသည်။ ဆပုဂ်ရွာအနီးရှိ ဆပုဂ်တောရသည် တွံတေးတောကြီးတန်းနှင့်တစ်ဆက်တည်းဖြစ်ပြီး လယ်တီဆရာတော်ကြီးအလိုတော်ကျ စိမ့်စမ်းလျှိုမြောင်တောတောင်ထူထပ်နေသောဌာနဖြစ်သည်။ ဆပုဂ်တောရအတွင်း ရှေးက ဒလမြို့ကြီး၏နန်းမြို့ရိုးနှင့် ကျုံးစသည်တို့တည်ရှိနေပါသည်။ သို့ဖြစ်၍ ထိုဆပုဂ်တောရတွင်ပင် တောရဝင်တော့မည်ဟုသန္နိဋ္ဌာန်ချဆုံးဖြတ်၍ ကွမ်းခြံကုန်းသို့ပြန်မကြွတော့ဘဲ သီတင်းသုံးနေတော်မူခဲ့ပါသည်။

**ကေတိသတိမဝါဆိုတော်မူခြင်း**

လယ်တီတောရဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၅၈–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၈၉၇–ခုနှစ်၊ ဇွန်လ) သို့ရောက်သောအခါ သီတင်းသုံးဆဲဖြစ်သော ဆပုဂ်တောရမှာပင် (၃၁)ကြိမ်မြောက်ကေတိသတိမဝါကို ကပ်ဆိုတော်မူခဲ့ပါသည်။

ဤနှစ် လယ်တီတောရဆရာတော်ကြီးဝါကပ်တော်မူသော ဆပုဂ်တောရသည် ဒလတောကြီးတန်းအတွင်း၌တည်ရှိပြီး၊ သစ်ဝါးပင်များစွာ နေပြောက်မထိုးအောင် ထူထပ်ပေါက်ရောက်နေသောတောရကြီးဖြစ်သည်။ သားရဲတိရစ္ဆာန်တို့လည်းပေါများသည်။ အထူးအားဖြင့် စပါးကြီးမြွေကြီးများအထူးပေါများကြောင်းပြောဆိုကြသည်။

လယ်တီတောရဆရာတော်ကြီးသည် ဆပုဂ်တောရအတွင်း စိမ့်စမ်းရေဝိုက်လည်စီးဆင်းလျက် နာနတ်ပင်ရိုင်းများထူထပ်စွာပေါက်နေသော ကျွန်းသဖွယ်ကုန်းမြင့်ကလေးတစ်ခုပေါ်ရှိ ကမ္မဋ္ဌာန်းတဲကျောင်းကလေးတစ်ခုကိုအမှီပြုကာ ဝါဆိုတော်မူခြင်းဖြစ်သည်။ နေ့အခါ ဆွမ်းခံကြွသောရွာကား ဆပုဂ်ရွာပင်ဖြစ်သည်။

**ဆပုဂ်တောရ၌အားထုတ်သောတရား**

လယ်တီတောရဆရာတော်ကြီး ဆပုဂ်တောရ၌သီတင်းသုံးနေတော်မူစဉ်အခါက အားထုတ်အပ်သောတရားတို့နှင့်စပ်၍ ဆရာတော်ကြီးက နောင်အခါ တပည့်ရင်းဦးဝဏ္ဏိတအား အမိန့်ရှိတော်မူပါသဖြင့် ဦးဝဏ္ဏိတ၏လယ်တီမဟာထေရုပ္ပတ္တိကထာကျမ်း၌ အောက်ပါအတိုင်းရေးသားမှတ်တမ်းတင်ထားခဲ့ပါသည်။

---

*၁ ဤ ဆပုဂ်အဖြေကို နောင်အခါ ဒါန–အစရှိသောတရားတို့ကို မေးမြန်းဖြေကြားထားသည်ဖြစ်၍ ဒါနာဒိဒီပနီကျမ်း–ဟု ခေါ်တွင်ခဲ့ကြသည်။ ဒါနာဒိဒီပနီကို ၁၂၈၈(အေဒီ–၁၉၂၆)ခုနှစ်တွင် မန္တလေးမြို့ ဂုဏဝတီပုံနှိပ်တိုက်က သီးခြားစာအုပ်ရိုက်နှိပ်ခဲ့ပြီး၊ နောင်အခါ လယ်တီပုစ္ဆာအဖြေကျမ်း၊ ဒုတိယတွဲ။ (စာမျက်နှာ–၁၂၁)။ ပြည်တွင်းပုစ္ဆာအဖြေပေါင်းချုပ်၊ ပထမတွဲ။ (စာမျက်နှာ–၃၉) စသည်တို့တွင် ဆပုဂ်ပုစ္ဆာအဖြေ–ဟူသောအမည်ဖြင့်ပင် ထည့်သွင်းပုံနှိပ်ထားပါသည်။

ထိုဆပုဂံတောရကျောင်းတွင် ရှေးဦးစွာ သမထအလုပ်များကို ထူထောင်အားထုတ်တော်မူ၏။ ကသိုဏ်း ၁၀–ပါးတို့တွင် 'ဩဒါတအဖြူကသိုဏ်း'ကို ဘုရားရှင်တို့ ချီးမွမ်းတော်မူကြ၏။ သာသနာတော်ထမ်းရဟန်းတော်များနှင့်လည်း သင့်လျော်၏။ ထို့ကြောင့် ဩဒါတအဖြူကသိုဏ်းကို အားထုတ်ခြင်းငှာ သင့်၏–ဟု တစ်ခုသောအဖြူပိုင်း၌ စိတ်ကိုနိုင်မြဲစွာထား၍ 'အဖြူ–အဖြူ'ဟု ဆင်ခြင်နှလုံးသွင်း၍ ရှုတော်မူ၏။ ပထမဆီးဖြူသီးခန့်အဖြူကသိုဏ်းကိုနိုင်နင်းသောအခါ ဂုံညင်းခန့် အဖြူကသိုဏ်းကိုနှလုံးသွင်းတော်မူ၏။ ၎င်းနောက် ဂုံညင်း နှစ်လုံးခန့်, လက်သီးဆုပ်ခန့်, ဦးခေါင်းတစ်လုံးခန့်, ကိုယ်တစ်ပိုင်းခန့်, ကိုယ်တစ်လုံးခန့်, ၎င်းနောက် မိမိနေသော အခန်းတစ်ခုလုံးခန့်, ၎င်းနောက် ကျောင်းတစ်ကျောင်းလုံးခန့်, ၎င်းနောက် ကျောင်းတိုက်တစ်တိုက်လုံးခန့်–စသည်ဖြင့် အဖြူကသိုဏ်းအာရုံကိုချဲ့၍ချဲ့၍သွားရာ ပင်လယ်အပြင်ကြီးကဲ့သို့ ကြည်လင်သန့်ရှင်းစွာ ပဋိဘာဂနိမိတ်ထင်ခြင်းသို့ရောက်လာ၏။ ပဋိဘာဂနိမိတ်ထင်ခြင်းသို့ရောက်သော်လည်း အာရုံနယ်အလွန်ကျယ်ဝန်းနေသည့်အတွက် အာရုံကို နိုင်နိုင်နင်းနင်း ငြိမ်သက်အောင် မယူနိုင်ရှိလေ၏။

ထိုအခါ ဤသို့ ဆင်ခြင်တော်မူ၏။ ပဋိဘာဂနိမိတ်တို့သဘောမည်သည် ငြိမ်သက်တည်ကြည်စွာ ထင်မြဲဖြစ်၏–ဟု ကျမ်းအဆိုရှိ၏။ ယခုထင်လာသောအာရုံကား ငြိမ်သက်ခြင်းမရှိ လှုပ်ရှား၏။ လှုပ်ရှားသောအာရုံသည် ပဋိဘာဂနိမိတ်ဟုတ်မည်မထင်။ အာရုံလိမ်ကြီး ပေါ်ပေါက်လာသည်ဟု အထင်မှား၏။ ဤသို့အထင်မှားချက်အတိုင်း အတည်ပြုလျက် သည်အာရုံကြီးကို ဖျက်ပစ်မှတော်မည်ဟု စိတ်ကူးကြံစည်မိ၏။ ကြံစည်သည့်အတိုင်း ၎င်းပဋိဘာဂနိမိတ်အာရုံကို မပျက်, ပျက်အောင် အတင်းနှင်ထုတ်ဖျက်ဆီးလေ၏။ သာမညနှင့်မဖျက်ဆီးနိုင်၊ အတော်ကြာအောင် ဖျက်ဆီးရ၏။ တစ်ညဥ့်လုံး မီးခွက်တွေထွန်းပြီး မီးရောင်ကို သေသေချာချာကြည့်လျက် အရောင်အလင်းအာရုံကိုယူ၍ဖျက်မှ ပဋိဘာဂနိမိတ်အာရုံ ပျက်သွားလေ၏။ ၎င်းအာရုံကို မဖျက်ဆီးဘဲ ကောင်းစွာမွေးမြူ၍ အထက်ကိုတက်သွားလျှင် အပ္ပနာသို့တောင်ရောက်နိုင်၏–ဟု အမိန့်တော်ရှိဖူးသည်။

၎င်းဒလတောကြီးတန်း ဆပုဂံတောကျောင်း၌ပင် 'အာနာပါနကမ္မဋ္ဌာန်း' လုပ်ငန်းကြီးကိုလည်း ဆက်လက်ထူထောင်တော်မူပြန်၏။ ၎င်းတောရကျောင်း၌ တရားအားထုတ်တော်မူစဉ် အောက်အမည်ပါတေးထပ်ကိုရေး၍ တပည့်ရှင်ဝဏ္ဏိတအား ပေးအပ်တော်မူ၏။

သာသနာနောက်ဖျား၊ ပေါက်ဘွားကြဆူဆူ။
ယောက်ျားပငါလိုလူ၊ ဇမ္ဗူမှာ ရှာစမ်း။

အားလုံ့လအလဲထူ၊ စံမတူထိုးတော့ဥဒါန်း။
ယောဂီမှုထွေလာ၊ ပဒေသာဉာဏ်ဆန်း။
ကေသရာဉာဏ်အစွမ်းဟာမို့၊ ရျာန်လမ်းကိုပြီးတိုင်။
ဝသီဘော်အစုံငါး၊ အကုန်သား စိုးရပိုင်နိုင်။
ဖြဟ္မာအောက် ထက်မိုးခရိုင်မှာ၊
တန်ခိုးမြိုင်မြိုင် အလံစိုက်လို့၊
စံလိုက်မယ်ပ အကျော်အမော်၊ ငြိုးဘူ့ပျော်ပျော်။
မိတေးသခင့် အောင်ပွဲတော်မှာ၊ နောင်ရဲအမော် လုပ်စမ်းမယ်ပလေး။[*၁]

လယ်တီတောရဆရာတော်ကြီးသည် အဖြူရောင်ကသိုဏ်းမှရအပ်ပြီးသော သမာဓိအစွမ်းကို အခြေခံလျက် ရုပ်,နာမ်တို့၏အပြစ်ကိုထင်ရှားစွာသိမြင်နိုင်သော ဝိပဿနာလုပ်ငန်းသို့ ကူးပြောင်း အားထုတ်တော်မူပြန်ပါသည်။

ဤသို့ဖြင့် လယ်တီဆရာတော်ကြီးသည် သမထနှင့်ဝိပဿနာဘာဝနာလုပ်ငန်းနှစ်ရပ်တို့ကို တစ်လှည့်စီကျင့်သုံးအားထုတ်တော်မူလျက် ဆပုဂံတောရအတွင်း ပျော်ပိုက်သီတင်းသုံးနေတော်မူခဲ့ရာ၊ သက္ကရာဇ် ၁၂၅၈-ခုနှစ်၊ ဝါကျွတ်လ (အေဒီ ၁၈၉၆-ခုနှစ်၊ စက်တင်ဘာလ) ကိုလွန်၍ နတ်တော်၊ ပြာသိုလ (အေဒီ ၁၈၉၆-ခုနှစ်၊ နိုဝင်ဘာ၊ ဒီဇင်ဘာလ) ရောက်ရှိလာခဲ့လေသည်။

## ဆရာသဲကြီးပင့်ရပုံ

ဤသို့ လယ်တီတောရဆရာတော်ကြီး ဆပုဂံတောရအတွင်း၌ ဝိပဿနာလုပ်ငန်းတို့ကို ထူထောင်လျက် လုပ်ကိုင်အားထုတ်တော်မူစဉ်အတွင်း၊ မုံရွာမြို့မှ အတူပါလာသော တပည့်ရဟန်းတော်တို့နှင့် ဒါယကာများက 'ဆရာတော်ကြီးသည် တစ်စုံတစ်ဦးကမပင့်သရွေ့ကာလပတ်လုံး မိမိ၏ဘာဝနာလုပ်ငန်းဖြင့် မွေ့လျော်နေမည်သာဖြစ်ပေရာ၊ ဆရာတော်ကြီးအား ဆပုဂံတောရမှခွာတော်မူပြီး မုံရွာမြို့ လယ်တီတိုက်သို့ပြန်ကြွပါရန် လျှောက်ထားပါမှသင့်တော်မည်'ဟု တိုင်ပင်ကြလေသည်။

သို့သော် ဆရာတော်ကြီးအားလျှောက်ထားဝံ့သူ တစ်ဦးမျှမရှိပါသောကြောင့် မုံရွာမြို့ရှိ တပည့်ဒကာကြီးများထံ အကြောင်းကြားကြရပြန်ပါသည်။ မကြာမီမှာပင် စကားအရာ၌ကျွမ်းကျင်၍ ဆရာတော်ကြီး၏အန္တေဝါသိကတပည့်ရင်း ဆရာသဲသည် မုံရွာမြို့မှရောက်ရှိလာပြီး လယ်တီတိုက်ဒကာ,ဒကာမ၊ ဥပါသကာ,ဥပါသိကာမစသော ယောဂီအများတို့ကိုယ်စား မုံရွာမြို့သို့ ဆရာတော်ကြီးပြန်လည်ကြွတော်မူပါမည့်အကြောင်း လျှောက်ထားခဲ့လေသည်။[*၂]

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ ၄၀-၄၁)။ 'သာသနာနောက်ပွား'-အမည်ရှိသော တေးထပ်၏ အနှစ်သာရမှာ လယ်တီတောရဆရာတော်ကြီး၏ ဆန္ဒနှင့် မကိုက်ညီလှသောကြောင့် ဤတေးထပ်မှာ ဆရာတော်ကြီးရေးလိမ့်မည်မဟုတ်ဟူသော အယူအဆရှိကြသည်။ မှော်ဘီစရိယဦးဌေးလှိုင်၏ ရဟန္တာ ၁၃နှင့်ပုဂ္ဂိုလ်ထူးများ၊ ၁၉၈၉-ခုနှစ်။ (စာမျက်နှာ-၃၀၃)။

*၂ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ပုဂ္ဂိုလ်ကျော်များ။ (စာမျက်နှာ-၁၀၅)။

ဆရာသဲကြီးနှင့်အတူ မုံရွာမြို့၊ လယ်တီတောရတိုက်မှတပည့်များဖြစ်ကြသော အရှင်လက်္ခ၊ အရှင်သုဘောဂ၊ အရှင်ဝိဇယ၊ အရှင်သီရိ၊ အရှင်နာဂ၊ အရှင်ဣန္ဒဝံသ၊ အရှင်တိလောက၊ အရှင်သုဒဿန၊ အရှင်ဝံသတို့၏ဆရာတော်ကြီးထံအသနားခံသောစာလွှာ၊ တိုက်သံဃာရှိသမျှတို့၏ အဋ္ဌလီပဂ္ဂယ ဒွါရဝန္ဒနာ လက်ဆယ်ဖြာကို ရှိသေစွာထိပ်မိုး၍ ရှိခိုးအသနားတော်ခံလျှောက်ထားသည့် စာလွှာ–စသည့် စာလွှာနှစ်စောင်လည်း ပါလာပါသည်။[*၁] ထိုသို့ တပည့်များ၏စာလွှာနှစ်စောင်ကို ဖတ်ရှုတော်မူရသောအခါ လယ်တီဆရာတော်ကြီးက– 'သင်းတို့အတွက်လည်း လုပ်စရာအနည်းငယ် ကျန်သေး၏'ဟု ခပ်တိုတိုမိန့်တော်မူပြီး၊ မုံရွာမြို့၊ လယ်တီတောရတိုက်သို့ ပြန်လည်ကြွမြန်းရန် နောက်ပါပစ္စည်းဘာသာမဏ္ဍာအရှင်နေယျကို ပြင်ဆင်စေပါသည်။ သို့ဖြင့် လယ်တီတောရဆရာတော်ကြီးသည် တောတောင်ရိပ်ကောင်းလှသော ဆပုဂံတောရ၌ မိမိမွေ့လျော်ပျော်ပိုက်အားသွန်ကြိုးပမ်းရွက်ဆောင်နေသော ဘာဝနာလုပ်ငန်းကို ခေတ္တရပ်သိမ်းလျက် ထိုနှစ် ၁၂၅၈–ခုနှစ်လွန် တပေါင်းလရောက်စ (အေဒီ–၁၈၉၇၊ မတ်) တွင် မုံရွာမြို့ လယ်တီတိုက်သို့ ကွမ်းခြံကုန်း၊ ဒေးဒရဲ၊ ရန်ကုန်၊ မန္တလေးမြို့များမှတစ်ဆင့် ပြန်လည်ကြွမြန်းတော်မူခဲ့ပါသည်။[*၂]

**တော်ကူးကြီးရွာသို့**

လယ်တီဆရာတော်ကြီးသည် ဆပုဂံအရပ်၌ ဘာဝနာအလုပ်ကို ရပ်သိမ်းပြီးတော်မူ၍ ကွမ်းခြံကုန်းမြို့သို့ ရှေ့ဦးကြွတော်မူခဲ့ပါသည်။ ကွမ်းခြံကုန်းမြို့တွင် တပည့်ဦးသုရိန္ဒ၏ ကွင်းကျောင်း (ဓမ္မိကာရုံ)၌ ခေတ္တသီတင်းသုံးတော်မူပြီး ကွင်းကျောင်းသံဃာများနှင့်အတူ နေ့စဉ်ကွမ်းခြံကုန်းရွာအတွင်း ဆွမ်းခံကြွပါသည်။ ထို့ပြင် မရမ်းကျေးရွာ၊ ကမာဘာကျေးရွာ၊ မြေနီကုန်းကျေးရွာများသို့တိုင် ဆွမ်းခံကြွတော်မူခဲ့ပါသည်။ ကွမ်းခြံကုန်း၌ လယ်တီဆရာတော်ကြီး သီတင်းသုံးနေတော်မူသောသတင်းသည် ရွာနီးချုပ်စပ်နေရာအနှံ့ သတင်းပျံ့လျက်ရှိရာ ထိုကွမ်းခြံကုန်းနှင့် အရှေ့တောင်ယွန်းယွန်း(၇)မိုင်ခန့်အကွာ၌တည်ရှိသော တော်ကူးကြီးရွာမှ ကျမ်းပြုအကျော် မြစ်ကွေ့ဆရာတော်ဦးကေတုမာလာ[*၃] ကြားသိတော်မူသောအခါ၊ မြစ်ကွေ့ဆရာတော်သည် ကွမ်းခြံကုန်းသို့ကြွလာပြီး လယ်တီဆရာတော်ကြီးအား တော်ကူးကြီးရွာသို့ကြွတော်မူပါရန် ပင့်ဆောင်တော်မူခဲ့ပါသည်။ သို့နှင့်လယ်တီဆရာတော်ကြီးသည် ကွမ်းခြံကုန်းမှ ဒေးဒရဲမြို့ကြွတော်မူပြီး၊ ဒေးဒရဲမြို့မှတဖန် လှေသင်္ဘောဖြင့် တော်ကူးကြီးရွာသို့ကြွတော်မူခဲ့ရပါသည်။

---

*၁ အရှင်ပဏ္ဍိတ၏ နာဂလိုဏ်ဂူကလေးဝဆရာတော်ကြီး သက်တော်(၈၈)နှစ်ပြည့် အထိမ်းအမှတ်စာတမ်း။ ၁၉၈၄–ခုနှစ်။ (စာမျက်နှာ–၁၆)။

*၂ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၄၁)။

*၃ ဝဇီရုပမဝိသဇ္ဇနာကျမ်းပြု မြစ်ကွေ့ဆရာတော် ဦးကေတုမာလာသည် မကွေးမြို့အရှေ့ဘက် သပြေစမ်းရွာဇာတိဖြစ်သည်။ ရှေးက 'မကွေး'ကို 'မြစ်ကွေ့'ဟုခေါ်ကြ၍၊ ဆရာတော်ဦးကေတုမာလာ၏ ဇာတိရပ်ရွာ 'မြစ်ကွေ့'ကိုအစွဲပြု၍ 'မြစ်ကွေ့ဆရာတော်'ဟူ၍ ခေါ်တွင်ခဲ့ခြင်းဖြစ်သည်။ ဆရာတော်သည် သက္ကရာဇ် ၁၂၅၁ (အေဒီ ၁၈၈၉)ခုနှစ်တွင် သုံးဆယ်မြို့ မောင်းထောင်တိုက်မှတစ်ဆင့် တော်ကူးကြီးသို့ကြွလာပြီး ကျောင်းထိုင်ခဲ့ခြင်းဖြစ်သည်။ နောင်အခါ မြစ်ကွေ့ဆရာတော်ကြီး တော်ကူးကြီး၊ တောခရမ်း၊ လက်ပံတန်း–စသည်မြို့များ၌ အလှည့်ကျသီတင်းသုံးနေတော်မူပါသည်။ စတုတ္ထစံကျောင်းဆရာတော်ဘဒ္ဒန္တ ဝိမလ၏ ဘဝနှင့်သာသနာ။ ၂၀၀၄–ခုနှစ်။ (စာမျက်နှာ–၂၉–၃၁)။

**တော်ကူးကြီးရွာ**

တွံတေးတောကြီးတန်းနှင့် (ယခုအခါ တိမ်ကောသွားပြီဖြစ်သော) သခွတ်ပင်မြစ်ကြီးတို့၏ အကြား၌တည်ရှိသော တော်ကူးကြီးရွာသည် မြစ်ဆိပ်သဲကုန်းတန်းရွာကြီးဖြစ်၍ အလွန်သာယာသည်။ ရာသီမရွေး စပါးပင်များရှိ၍ ရှုမျှော်၍မဆုံး တစ်ကွင်းလုံး မြရောင်စိမ်းလဲ့နေသည်။ တော်ကူးကြီးရွာ၌ နေထိုင်သူရွာသူရွာသားလူအပေါင်းမှာ သဒ္ဓါတရားထက်သန်ပြီး သာသနာ၌ ကြည်ညိုကြသူများဖြစ်သည်။ လယ်တီဆရာတော်ကြီး ထိုတော်ကူးကြီးရွာကြွတော်မူခဲ့ပုံအကြောင်းနှင့်စပ်၍ မှတ်တမ်းတစ်စောင်တွင် အောက်ပါအတိုင်းဖော်ပြထားသည်။

တော်ကူးကြီးရွာသည် ရွှေကျင်ဆရာတော်ဘုရားကြီးကဲ့သို့သော မဟာပုရိသ ယောကျ်ားမြတ်တို့ ကြွရောက်ချီးမြှောက်ရာဌာနဖြစ်သကဲ့သို့[*၁] လယ်တီဆရာတော်ဘုရားကြီးကဲ့သို့သော သာသနာတစ်ခေတ်တွင် နေတစ်စင်းပမာထွန်းလင်းခဲ့သည့် ပုဂ္ဂိုလ်မြတ်တို့ကြွရောက်ရာ ဒေသလည်းဖြစ်ပေသည်။

ကွမ်းခြံကုန်းအရှေ့ဘက်ရှိ ဆပဂ်ရွာကလေးသည် ပထဝီအနေအထားအရ ပြောပလောက်သောအချက် တစ်ခုမျှမရှိ။ သမိုင်းကြောင်းအရလည်း ပမာဏ မမြောက်လှပါ။ သို့ရာတွင် လယ်တီဆရာတော်ဘုရား၏ ဂုဏ်ကျေးဇူးကို အောက်မေ့ သတိရသူတို့အတွက်မူ အလွန်အရေးကြီးလှပေသည်။ သာသနာ့သမိုင်းဝင် နေရာမြတ်တစ်ခုပင်ဖြစ်သည်။

ထို့အတူ တော်ကူးကြီးရွာသည်လည်း လယ်တီဆရာတော်ဘုရားကြီး ကိုယ်တော်တိုင်ကြွရောက်၍ တရားဓမ္မပြန့်ဝေရာဒေသဖြစ်သည်။ အကြင် ဓမ္မမာမကပုဂ္ဂိုလ် တစ်ဦးသည် လယ်တီဆရာတော်ဘုရားကြီး၏ သာသနာပြုရာဌာန စာရင်းများကို ကြည့်အံ့၊ ထိုစာရင်းတွင် တော်ကူးဟူသောအမည်ကိုတွေ့ရပေမည်။[*၂] ထိုအမည်မှာ တော်ကူးကြီးရွာဖြစ်သည်။

လယ်တီဆရာတော်ဘုရားကြီးနှင့် မြစ်ကွေ့ဆရာတော်ဘုရားကြီးတို့သည် စာသင်ဖက်ဖြစ်ကြောင်းဖော်ပြခဲ့ပြီးပါပြီ။ ထိုစဉ်က လယ်တီဆရာတော်လောင်းလျာ ဦးဉာဏက မြစ်ကွေ့ဆရာတော်လောင်းလျာဦးကေတုမာလာအား ဆွမ်းကိစ္စကူညီရသည်။ ပညာလည်းတတ်စွမ်းသမျှ ဝေငှရသည်။

ၚင်းပြင် တော်ကူးကြီးရွာ သရက်တောကျောင်း၌ ကျောင်းထိုင်နေသော အရစ်ခေါ် ဆတော်ပိန် ခေါ် ဆရာတော်ကြီးတစ်ပါးရှိသည်။ ထိုဆရာတော်ကြီးသည်လည်း လယ်တီဆရာတော်ကြီး၏ ဓမ္မသဟာယဖြစ်သည်။ ဆတော်ပိန်သည် ရန်ကုန်မြို့ သရက်တောကျောင်းနှင့် တော်ကူးကြီးရွာ သရက်တောကျောင်းတို့တွင် အလှည့်ကျ သီတင်းသုံးသည်။

လယ်တီဆရာတော်သည် တော်ကူးကြီးရွာတွင် ဆတော်ပိန်နှင့် မြစ်ကွေ့ ဆရာတော်တို့ သီတင်းသုံးနေကြောင်း သိပြီးဖြစ်သည်။ ထို့ကြောင့် ဒေးဒရဲမြို့မှ

*၁ တော်ကူးကြီးရွာသို့ ရွှေကျင်ဆရာတော်ဘုရားကြီး သက္ကရာဇ် ၁၂၃၃ (အေဒီ ၁၈၇၁)ခုနှစ်တွင် ကြွတော်မူခြင်းဖြစ်ပါသည်။

*၂ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၆၉)။






တော်ကူးကြီးကျေးရွာ မြစ်ကွေ့ဆရာတော်ဦးကေတုမာလာပုံနှင့်သီတင်းသုံးတော်မူရာလယ်ပေါ်ကျောင်း

တော်ကူးကြီးကျေးရွာ၌ လယ်တီဆရာတော်ကြီးသီတင်းသုံးတော်မူခဲ့သောနေရာ

တစ်ဆင့် တော်ကူးကြီးရွာသို့ကြွလာသည်။ ဒေးဒရဲနှင့် တော်ကူးကြီးရွာသည် ရေလမ်း ခရီးဖြင့် သွားလာလွယ်ကူသောနေရာများဖြစ်သည်။ ဒေးဒရဲမှပင်လယ်ဝသို့ နာရီဝက် ခန့်သင်္ဘောဖြင့်သွားလျှင် ဒီဆိုင်[ပ]ခေါ်သော ဒေးဒရဲမြစ်၊ သခွတ်ပင်မြစ်၊ ပင်လယ်ဝ သုံးပွင့်ဆိုင်သို့ရောက်၏။ ဆက်လက်၍ သခွတ်ပင်မြစ်အတိုင်းဝင်လာလျှင် တော်ကူး ချောင်းဝသို့ရောက်သည်။

တော်ကူးကြီးရွာသူရွာသားတို့သည် လယ်တီဆရာတော်ကြီးအား တော်ကူး ချောင်းဝမှ ပန်းရထားဖြင့် ခမ်းနားကြီးကျယ်စွာကြိုဆိုသည်။ ဆရာတော်ကြီးသည် သရက်တောကျောင်းနှင့် ရွာလယ်ဘုရားကြီးအနီး ယာယီစံကျောင်းတွင် ခေတ္တ သီတင်းသုံးသည်။ ဆတော်ပိန်သည် သုဓမ္မာဂိုဏ်းဝင်ဖြစ်၍ သရက်တောကျောင်း အနီးတွင် တည်းခိုခြင်းဖြစ်ဟန်တူ၏။

ညစဉ် တရားဟောသောအခါ ဇာခြင်ထောင်အတွင်းကနေ၍ ဟောသည်။ ထိုအချိန်က အောက်လင်းဓာတ်မီးခေတ်ဖြစ်၍ ပိုးမွှားများသည် မီးရောင်တွင် လာရောက်ဝဲပျံနေလေ့ရှိကြသည်။ ဆရာတော်ကြီး၏အသရေတော်၊ တည်ငြိမ် အေးချမ်းသောအသံ၊ စက္ခုန္ဒြေချထားသောမျက်လွှာတို့သည် အလွန်သဒ္ဓါညွတ်နူး စိတ်ရွှင်မြူး စရာဖြစ်သည်ဟု ယနေ့တိုင် တစ်ဆင့်စကားဆိုကြဆဲရှိသေးသည်။*၁

လယ်တီတောရဆရာတော်ကြီးတော်ကူးရွာကြီး၌ ခေတ္တသီတင်းသုံးနေတော်မူပြီး၊ ဒေးဒရဲမြို့သို့ကြွတော်မူပါသည်။ ထိုမှ ရန်ကုန်မြို့သို့ကြွတော်မူကာ ရန်ကုန်မြို့မှတစ်ဆင့် မန္တလေးသို့ မီးရထားဖြင့် ပြန်လည်ကြွမြန်းတော်မူခဲ့ပါသည်။

**ပုဏ္ဏောဝါဒကမ္မဋ္ဌာန်း***၂

လယ်တီဆရာတော်ကြီး မန္တလေးမြို့သို့ဆိုက်ရောက်တော်မူလျှင် တည်းခိုသီတင်းသုံးရာ ကျောင်းတိုက်သို့ မန္တလေးမြို့ စံကျောင်းတိုက်၌နေစဉ်ကပင် ဆွမ်းဒကာမဖြစ်ခဲ့ဖူးသူ မန္တလေးမြို့ ဂုဏ္ဍနိ*၃ ရပ်နေ အသက်-၆၀ အရွယ်ရှိ ဒေါ်ပုံခေါ် အမေပုံအမည်ရှိ ဒကာမကြီး လာရောက်ဝတ်ပြု ကန်တော့ပြီး သိလိုသမျှအကျိုးအကြောင်းတို့ကို လျှောက်ထားမေးမြန်းနာယူခဲ့ပါသည်။

လယ်တီတောရဆရာတော်ကြီးကလည်း မဇ္ဈိမဒေသမှပြန်ကြွလာသည်မှာ ကာလအတန်ကြာ ခဲ့ပြီဖြစ်သော်လည်း ရန်ကုန်မြို့အနီး တွံတေးတောကြီးတန်းရှိ ဆပုဂံတောရ၌ တစ်ဝါတစ်ရှည် သီတင်းသုံးကာ တရားအားထုတ်နေ၍ အထက်သို့ပြန်မကြွနိုင်ကြောင်းနှင့် ထိုဆပုဂံတောရတွင်

---

*၁ စတုတ္တဂံကျောင်းဆရာတော် ဘဒ္ဒန္တ ဝိမလ၏ ဘဝနှင့်သာသနာ။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၂၀၀၄-ခုနှစ် (စာမျက်နှာ-၃၃)။

*၂ ဤပုဏ္ဏောဝါဒကမ္မဋ္ဌာန်းသည် စာမျက်နှာအားဖြင့် (၂၈) မျက်နှာသာရှိသည်ဖြစ်၍ သီးခြားစာအုပ်အဖြစ် ပုံနှိပ်ခြင်းမပြုဘဲ အခြားတစ်ကျမ်းကျမ်းနှင့်တွဲ၍သာ ပုံနှိပ်ခဲ့ပါသည်။ ရန်ကုန်မြို့ ကဝိမျက်မှန်ပုံနှိပ်တိုက်က ၁၂၈၆(အေဒီ-၁၉၂၄)ခုနှစ်ရိုက် ဓမ္မဒီပနီကျမ်း (စာမျက်နှာ ၁၂၉-၁၅၇)အတွင်း ထည့်သွင်းပုံနှိပ်ဖော်ပြခြင်းမျိုးဖြစ်သည်။

*၃ ဂုဏ္ဍနိရပ်မှာ မန္တလေးမြို့ ချမ်းအေးသာဇံမြို့နယ် အကွက်(၅၆၇)မြို့လယ် ဆူးခါးကျောင်းတိုက်ဝင်းနေရာဖြစ်သည်၊ တောင်မြောက် ၃၂-လမ်းနှင့် ၃၃-လမ်းအကြား၊ အရှေ့အနောက် ၈၂-လမ်းနှင့် ၈၃-လမ်းကြားဖြစ်သည်။

တရားအားထုတ်ရသည်မှာ အလွန်ကောင်းကြောင်းတို့ပါ အမိန့်ရှိတော်မူလေရာ ထိုဒကာမကြီး ဒေါ်ပုံက ထိုဆပုဂံတောရ၌ ဆရာတော်ကြီး၏အားထုတ်ပုံလုပ်ငန်းစဉ်တို့ကိုသိရှိလိုပါကြောင်း မေးမြန်းလျှောက်ထားခဲ့သည်။ ထိုအခါ လယ်တီတောရဆရာတော်ကြီးက ဒကာမကြီးဒေါ်ပုံအား ကမ္မဋ္ဌာန်းဆိုင်ရာသြဝါဒစကားအဖြစ် ပုဏ္ဏောဝါဒ *၁ ကမ္မဋ္ဌာန်းစာကို ရေးသားပေးတော်မူပါသည်။ ဤပုဏ္ဏောဝါဒကမ္မဋ္ဌာန်းတရားစာသည် လယ်တီတောရဆရာတော်ကြီး မဇ္ဈိမဒေသမှပြန်ကြွလာပြီးနောက် ရှေးဦးပထမရေးသော ကမ္မဋ္ဌာန်းစာဖြစ်သကဲ့သို့ လယ်တီဆရာတော်ရေးသားခဲ့သော ကမ္မဋ္ဌာန်းဘာဝနာတရားစာဒီပနီတို့တွင်လည်း လက်ဦးဆုံးကမ္မဋ္ဌာန်းတရားစာပင်ဖြစ်တော့သည်။

ထိုပုဏ္ဏောဝါဒကမ္မဋ္ဌာန်းတွင် ကမ္မဋ္ဌာန်းအလုပ်၏အကျဉ်းဥဒ္ဒေသအဖြစ် ဤသို့ ဖော်ပြထားသည်။

> အယံကာယော–ဤကိုယ်သည်၊ ဘူတသင်္ဃာယော–ဓာတ်ကြီးလေးပါးဟုဆိုအပ်သော မဟာဘုတ်တို့၏ အပေါင်းအစုသည်၊ ဟောတိ–ဖြစ်၏။ ဆန္ဒပသာဒါနံ–ခြောက်မျိုးသော အကြည်အလင်း အတွင်းဓာတ်နတို့ဖြင့်၊ ပူရော–ပြည့်၏။ အဋ္ဌဟိ အင်္ဂဟိ–ရှစ်မျိုးသောဓာတ်မီးတို့သည်၊ နိစ္စံ–အမြဲ၊ အာဟိတော–အုပ်စိုးအပ်၏။ ပဉ္စဟိသြဇာဟိ–ငါးမျိုးသောဓာတ်ဆီတို့သည်၊ ရက္ခိတော–စောင့်အပ်၏၊ ထမ္ဘိတော–ထောက်ပံ့အပ်၏။ ဓာတုဘက္ခော–ဖြစ်ပွားသမျှသော ဓာတ်ကြမ်းဓာတ်နတို့ကို အမြဲပုံသေစား၍နေသော၊ ကော–တစ်ခုသော၊ ဓာတုယက္ခော–ဓာတ်ဘီလူးသည်၊ အဓိပတ္တော–အုပ်စိုး၏။ တဿ–ထိုဓာတ်ဘီလူး၏၊ ပက္ခာ–အပင်းအသင်းတို့သည်ကား၊ ဗဟူ–အသိန်းမက များပြားကုန်၏။ အယံ–ဤသည်ကား၊ ဥဒ္ဒေသော–အကျဉ်းတည်း။ ။*၂

အကျယ်အနေဖြင့် ကိုယ်ခန္ဓာတစ်ခုလုံးကို ပထဝီ,အာပေါ,တေဇော,ဝါယော–ဟု ဓာတ်ကြီးလေးပါး လေးစုပုံ၍ ကြည့်ရှုဆင်ခြင်သုံးသပ်ပုံ, ကြည့်ရှုဆင်ခြင်သုံးသပ်နည်းတည်းဟူသော စတုဓာတုဝဝတ္ထာန်တရား(တစ်နည်း)ဓာတ်ကြီးလေးပါးခွဲခြမ်းရှုနည်းကို လက်တွေ့ရှုနည်းလမ်းစဉ်နှင့်တကွ လမ်းညွှန်ပြသပေးတော်မူသည်။

ဤသို့လျှင် ဆွမ်းကွမ်းအမကြီးဒေါ်ပုံအား ဓာတ်ကြီးလေးပါးအစရှိသော တရားသားတို့ကို ရှာဖွေကြည့်ရှုနိုင်ရန် ပုဏ္ဏောဝါဒကမ္မဋ္ဌာန်းတရားကိုချီးမြှင့်ပြီးသည့်နောက် သက္ကရာဇ် ၁၂၅၈–ခုနှစ်၊ တပေါင်းလ (အေဒီ –၁၈၉၇၊ မတ်) အတွင်း မန္တလေးမြို့မှစစ်ကိုင်းသို့ မီးရထားဖြင့်ကြွပြီး၊ *၃

---

*၁ ဒေါ်ပုံ၏အမည်ကို ပါဠိဘာသာဖြင့် 'ပုဏ္ဏ' ဟုခေါ်ဆိုပြီး၊ ထိုဒေါ်ပုံခေါ် ဒေါ်ပုဏ္ဏအား ပေးအပ်သောသြဝါဒဖြစ်၍ ပုဏ္ဏ + ဩဝါဒ > ပုဏ္ဏောဝါဒ–ဟူ၍ တရားအမည်ကိုပေးအပ်တော်မူခဲ့ပါသည်။

*၂ လယ်တီဆရာတော်ကြီး၏ ပုဏ္ဏောဝါဒကမ္မဋ္ဌာန်းကျမ်း။ ဓမ္မဒီပနီ။ ၁၂၈၆–ခုနှစ်။ (စာမျက်နှာ–၁၂၉)။

*၃ မန္တလေး–စစ်ကိုင်း မီးရထားလမ်းကို အေဒီ ၁၈၉၆–ခုနှစ်တွင် ဖွင့်လှစ်နိုင်ခဲ့ပြီဖြစ်ပါသည်။ လှသမိန်၏ မြန်မာနိုင်ငံတစ်ခွင် ခရီးလမ်းစဉ်များ။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၅၇)။

စစ်ကိုင်းမှတစ်ဖန် မုံရွာမြို့ လယ်တီတောရတိုက်သို့ လှည်းတစ်တန်လေ့တစ်ဆင့်ဖြင့် အဆင့်ဆင့် အတန်တန် ပြန်ကြွတော်မူခဲ့ပါသည်။

ရှင်ပဏ္ဍိစ္စ[*၁] ရောက်လာခြင်း

လယ်တီတောရဆရာတော်ကြီး လယ်တီတောရသို့ပြန်လည်ရောက်ရှိပြီး၊ သက္ကရာဇ် ၁၂၅၈-ခုနှစ်ကုန်လ၊ တပေါင်းလဆန်း ၈-ရက် (အေဒီ-၁၀၊ မတ်လ၊ ၁၈၉၇)နေ့တွင် မုံရွာမြို့တောင်ဘက် ရွာထောင်တောရဉ္ဇသီတင်းသုံးနေသော ဓုတင်ဘုန်းကြီးဦးကဝိသည် အသက် ၁၈-နှစ်အရွယ် ကိုရင်ကြီးတစ်ပါးကို နောက်မှလိုက်ပါစေလျက် မုံရွာမြို့ လယ်တီတိုက်သို့ရောက်ရှိလာသည်။ ကိုရင်ကြီး၏ရုပ်ဆင်းအင်္ဂါမှာ ရှုချင့်စဖွယ်ရှိသော်လည်း အထိုက်အလိုက်ပြုပြင်ပေးမှုမရှိခဲ့ခြင်းကြောင့် အလွန်နွမ်းပါးချို့တဲ့သောအသွင်၊ မျက်နှာအောက်ချလျက် ကြောက်လန့်ဟန်ရှိနေပေသည်။

လယ်တီဆရာတော်ကြီးသည် ဓုတင်ဘုန်းကြီးဦးကဝိထံမှ ထိုကိုရင်ကြီးအကြောင်းကို အတန်မျှသိရလေသည်။ ကိုရင်ကြီးမှာ မိဘမဲ့တစ်ကောင်ကြွက်ဖြစ်ပြီး[*၂] သူငယ်ချင်းတစ်ဦးနှင့် အတူနေခဲ့ရကြောင်း၊ မကြာမြင့်မီ သူငယ်ချင်းအိမ်ထောင်ကျရာ ဇနီးဖြစ်သူကငြိုစူလာသော ကြောင့် ဓုတင်ဘုန်းကြီးဦးကဝိထံရောက်ရကြောင်း၊ စာသင်လိုသော်လည်း ဦးကဝိမှာ ဓုတင်ပုဂ္ဂိုလ် သက်သက်ဖြစ်သဖြင့် စာမသင်ခဲ့ရကြောင်း၊ လယ်တီဆရာတော်ကြီးထံတော်သို့ သွားလိုသော ဆန္ဒရှိ၍ ခေါ်ခဲ့ရကြောင်း-စသည်တို့ကို လယ်တီဆရာတော်ကြီးသိတော်မူသောအခါ လယ်တီ ဆရာတော်ကြီးက ကိုရင်ကြီးအား-

'မင်းဘွဲ့ မည်သူတဲ့လဲ'ဟုမေးတော်မူရာ ကိုရင်ကြီးက 'ပဏ္ဍိစ္စပါဘုရား'ဟု လျှောက်ထား လေသည်။ 'ပဏ္ဍိစ္စ'ဟူသောဘွဲ့အမည်ကိုကြားရလျှင် လယ်တီဆရာတော်ကြီးသည် မိမိ၏ဆရာ စလင်းဆရာတော်ကြီး၏ဘွဲ့အမည်နှင့်တူသဖြင့် ခေါ်ရန်ခက်ခဲပေရာ၊ 'မင်းဘွဲ့က ငါ့ဆရာ စလင်း ဆရာတော်ကြီးဘွဲ့နဲ့တူနေတယ်၊ သဒ္ဒါနည်းအရ ဘာဝရုပ်ကြီးဖြစ်၍လည်း မကောင်းချေ၊ ပဏ္ဍိတ-ဟု ပြင်ဆင်ရမည်၊ ဒီကိုရင်ကို ပဏ္ဍိတခေါ်ကြ'ဟု ချက်ချင်းမိန့်တော်မူလေသည်။ ပြီးလျှင် ဦးတိလောကထံအပ်နှံထားသည်။

ဦးတိလောကသည် တပည့်သစ်ကိုရင်ကြီးကို စာဝါများစမ်းသပ်ပို့ချကြည့်ရာ ကိုရင်ကြီး ရှင်ပဏ္ဍိတသည် သင်တိုင်းတတ်သည့် ဉာဏ်ထက်သောပုဂ္ဂိုလ်ဖြစ်ပေရာ ဦးတိလောက အလွန်အားရတော်မူသဖြင့် 'တော်တဲ့ ယောကျ်ားပေပဲ၊ နောင်အခါ ထင်ရှားလိမ့်မယ်၊ ကြိုးစားကွဲ့'ဟု အားပေးတော်မူလေသည်။

---

[*၁] ဤ ကိုရင်ပဏ္ဍိစ္စသည် နောင်အခါ လယ်တီပဏ္ဍိတ၊ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး-စသည့်အမည်တို့ဖြင့် လယ်တီ နိကာယအတွင်း၌သာမက သာသနာတော်၌ပါ ဂုဏ်သတင်းကျော်သော စာပေပညာရှင်ကြီးတစ်ဆူဖြစ်ပါသည်။

[*၂] ထိုကိုရင်မှာ ချောင်းဦးမြို့နယ်၊ ညောင်ဖြူပင်ရွာဇာတိ သက္ကရာဇ် ၁၂၄၀-ပြည့်နှစ်၊ တပို့တွဲလဆန်း ၉-ရက်နေ့ (အေဒီ-၃၀၊ ၁၊ ၁၈၇၉)ဖွား၊ အမိဒေါ်ထပ်မှာ ကိုရင်အသက်(၉)နှစ်တွင်၊ အဖဦးရောက်ကလေးမှာ ကိုရင်အသက်(၁၄)နှစ်တွင် ကွယ်လွန်ခဲ့ကြပြီး ညီအစ်ကိုမောင်နှမအရင်းအချာဟုမရှိခဲ့သည့်အတွက် တစ်ကောင်ကြွက်ဟုသုံးနှုန်းခြင်းဖြစ်သည်။ လယ်တီ ဦးကောဝိဒ၏ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ဇနပ္ပဒတ္ထိကထာ။ ၁၃၀၁-ခုနှစ်။ (စာမျက်နှာ-၂၊ ၄၊ ၆)။

သို့ပါသော် ကိုရင်ပဏ္ဍိတ၏ဆရာရင်း ဦးတိလောကသည် လယ်တီတောရအတွင်း သီးသန့်ဝါးကျောင်းကလေးတစ်ဆောင်ရထားပေရာ၊ ထိုကျောင်းအတွင်း မည်သည့်အခါမဆို စာနှင့်မျက်စိမခွာတမ်းကြည့်၍သာနေသော ပုဂ္ဂိုလ်တစ်ဦးဖြစ်သည်။ ဦးတိလောကသည် စာကြည့်အလွန်သန်သောဘုန်းကြီးဖြစ်ပေရာ ပါဠိတော်ပေစာထုပ်များကို ဆိုင်ရာအဋ္ဌကထာ, ဋီကာ, အနုဋီကာ, ယောဇနာ–စသော ပေစာထုပ်ပေါင်းများစွာနှင့် တိုက်ဆိုင်ဖြန့်ခင်းပြီး အထူးအပင်ပန်းဆင်းရဲခံကာ ပါဠိတော်၌ မကြံဖူးသောပုဒ်ဟူ၍ မကြွင်းရအောင် ရင်းတုန်ဖျားလှည့် အထပ်ထပ်စေ့စပ်စွာ ကြည့်ရှုနေခဲ့သည်။

ဤသို့စာကြည့်လွန်း၍ ဦးတိလောက၏မျက်စိမှာဖူးယောင်လာပြီး ကျီးအာသီးမှည့်နေသည့်အလား နီရဲနေလေ၏။ ထို့နောက် သွေးများပင်ကျဆင်းလာတော့သည်။ ဦးတိလောက မျက်စိထိခိုက်သည်ကို လယ်တီဆရာတော်သိတော်မူပြီး– 'မောင်တိလောက တဖွတ်တရွတ်ပြုလုပ်တတ်သောဝါသနာကြောင့် သင်းဆင်းရဲရပြီ'ဟုဆိုတော်မူကာ ဦးတိလောက၏ကျောင်းအတွင်းရှိပေစာများကို သိမ်းဆည်းယူစေသည်။ ဦးတိလောကကိုလည်း စာမကြည့်ရန်တားမြစ်ခဲ့သည်။

ဦးတိလောကသည် စာပေအလုပ်ကိုခေတ္တစွန့်ပယ်ထားရသောကြောင့် လယ်တီဆရာတော်ကြီးအလိုတော်ကျ သမထဝိပဿနာဘာဝနာဘက်သို့ ဦးလှည့်ရန်ကြိုးစားခဲ့သည်။ သို့ဖြင့် အထက်အညာချင်းတွင်းမြစ်ဖျားသို့ကြွ၍ တရားအားထုတ်နေခဲ့လေသည်။ သို့မကြွမီတွင် ဓမ္မာစရိယဖြစ်တော်မူသော ကျေးဇူးရှင်လယ်တီဆရာတော်ကြီးအား ခွင့်ပန်ကန်တော့ပြီးလျှင် တိုက်သံဃာတို့အားလည်း 'ငါ့ရှင်တို့၊ ငါသည် နောင်သောအခါ မုံရွာလယ်တီတိုက်သို့တစ်ဖန်ပြန်လာခဲ့သော် ယခုလိုမြေပြင်ခရီးမှ ခြေလျင်လာလိမ့်မယ်မဟုတ်တော့'–ဟူ၍ပင် ရဲတင်းပြတ်သားသောစကားကို မိန့်ကြားတော်မူခဲ့ပါသေးသည်။*၁

ရှင်ပဏ္ဍိတ ကုသိုလ်ကံထူးပုံ

ကိုရင်ကြီးပဏ္ဍိတသည် ကုသိုလ်ကံထူးသည်ဟုဆိုရမည်။ ဦးတိလောက မျက်စိဝေဒနာဖြစ်၍ ဝိပဿနာဘာဝနာကျင့်ကြံအားထုတ်ရန် ချင်းတွင်းမြစ်ညာသို့ထွက်ခွာသွားသောအခါ၌ လယ်တီဆရာတော်ကြီးထံတော်နှင့် လယ်တီတိုက်အတွင်းရှိ အခြားစာချဘုန်းတော်ကြီးတို့၏အထံတို့တွင် သဒ္ဒါ, သင်္ဂြိုဟ်စသောစာဝါတို့ကို နေ့ဝါ,ညဝါဖြင့် သင်ယူခဲ့ရသည်။

အထူးသဖြင့် လယ်တီဆရာတော်ကြီးထံတော်တွင် သဒ္ဒါ, သင်္ဂြိုဟ်, ရူပသိဒ္ဓိစာဝါတို့ကို သင်ယူခဲ့ကြရ၏။ သင်ယူ၍မကြာမီမှာပင် ရှင်ပဏ္ဍိတသည် သင်ကြားတိုင်း မဆိုင်းမတွတတ်သိသည်ချည်းဖြစ်နေသဖြင့် ဆရာတော်ကြီးကပင်– 'ပဏ္ဍိတဟာ တကယ့်လူ၊ သူများတွေ ၃, ၄–နှစ်သင်ရတဲ့စာကို ၃, ၄–လနှင့်တတ်နိုင်သည်၊ လူနသလောက် ဉာဏ်ကရင့်ပါပေသည်၊ သင်း

---

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထ ဝင်ကျော်များ။ (စာမျက်နှာ–၃၁၇၊ ၃၂၀)။

ဆွမ်းမခံစေနှင့်၊ ငါ့ကျောင်းမှာစား၍ စာသင်ရမည်’ဟု အမိန့်ရှိတော်မူကာ အရှင်ပဏ္ဍိတကို အနီး၌ထားလျက် ချီးမြှောက်တော်မူခဲ့ပါသည်။*၁

ထိုစဉ်အခါက ရှင်ပဏ္ဍိတ ဆရာတော်ကြီးထံမှစာသင်ယူခဲ့ရပုံမှာ ဤသို့ဖြစ်သည်။ လယ်တီဆရာတော်ကြီးက ရှင်ပဏ္ဍိတကို အခြားစာသင်သားများနှင့်ရောချ၍မထား၊ သီးသန့်ထား၍ သင်ပေးသည်။ ရှေးဦးဆုံးသင်ရသောစာမှာ သဒ္ဒါဖြစ်သည်။ သဒ္ဒါသင်ရာတွင် ကစ္စည်းသဒ္ဒါကြီး သုတ်စဉ်ကို ရှေးဦးရအောင်ကျက်စေသည်။ သုတ်စဉ်ရမှ ပဒရူပသိဒ္ဓိကိုလက်စွဲပြု၍ သင်ပေးသည်။ ထို့နောက် သဒ္ဒါဘက်က နာမ်ရုပ်,အာချာတ်ရုပ်,ကိတ်ရုပ်စသည် သဒ္ဒါရုပ်တွက်တို့ကိုနားလည်၍ သဒ္ဒါကျေလျှင် ငါးရာ့ငါးဆယ်နိပါတ်ဇာတ်အဋ္ဌကထာတို့ကို သင်စေပြန်သည်။ သင်သည့်ဆိုရာ၌ ဆရာတော်ကြီးကချမပေးဘဲ ရှင်ပဏ္ဍိတကိုယ်တိုင် အနက်သမ္ဗန်ရသည်။ အဖုအဆစ်ဖြစ်နေလျှင် ဆရာတော်ကြီးက ‘ဒီလိုယူ၊ ဒီလိုမှတ်’ဟု ရှင်းပြသည်။ ဇာတကဋ္ဌကထာကုန်လျှင် ဆရာတော်ကြီးက ‘မောင်ရှင်-မင်း စာတတ်ပြီ၊ သင်ဖို့မလိုတော့ဘူး’ဟုမိန့်ကာ ကျန်ပါဠိတော်တို့ကို အဋ္ဌကထာနှင့်တွဲ၍ ကြည့်စာအဖြစ်ကြည့်စေသည်။*၂

လယ်တီဆရာတော်ကြီး၏နည်းနာနိဿယအတိုင်း ကျက်မှတ်သင်ယူခဲ့သော ရှင်ပဏ္ဍိတသည် မကြာမီမှာပင် ‘စာတော်ကိုရင်’အဖြစ်ကျော်လေတော့သည်။ ရှင်ပဏ္ဍိတသည် လယ်တီဆရာတော်ကြီးသီတင်းသုံးတော်မူရာကျောင်းမှာနေရပြီး ဆွမ်းခံမထွက်ရ၊ ဆရာတော်ကြီး၏ ဆွမ်းပွဲကိုပင်ခံ၍စားရသည်။

လယ်တီဆရာတော်ကြီးသည် မိမိကသာ ရှင်ပဏ္ဍိတအား အဝတ်,သင်္ကန်း,ထီး,ဖိနပ်မှစ၍ အသုံးအဆောင်ပစ္စည်းလေးပါးတို့ကို ထောက်ပံ့နေခဲ့သော်လည်း ရှင်ပဏ္ဍိတက ဆရာတော်ကြီး ဆွမ်းဘုဉ်းပေးစဉ် ဝေယျာဝစ္စပြုလုပ်ခဲ့သော် ဆရာတော်ကြီးက ချက်ချင်းပင် ငြင်းပယ်တော်မူလေ့ရှိသည်။ ထိုအခါမျိုး၌ ဆရာတော်ကြီးက–

> ‘သွား–သွားဟဲ့ ပဏ္ဍိတ၊ နင်က ငါ့ကို လောကွတ်မလုပ်လာနဲ့၊ နင့်ကို ဒီဝတ္တရားများအတွက် ငါပြုစုထားတာမဟုတ်ဘူး။ သွား–နောက်ကို ဒီလိုမလုပ်နဲ့’

ဟု တင်းတင်းမာမာ တားမြစ်ပိတ်ပင်တော်မူလေသည်။*၃

ဤသို့လျှင် လယ်တီတိုက်အတွင်း၌ မည်သည့်ဝေယျာဝစ္စကိုမျှမလုပ်စေဘဲ အေးချမ်းစွာ စာကိုသာ တစ်သမတ်တည်းသင်ယူစေခဲ့သဖြင့် ရှင်ပဏ္ဍိတကလည်း လယ်တီဆရာတော်ကြီး အပေါ်၌ အဖရင်းမက အားကိုးအားထားပြုရှာလေသည်။ လယ်တီဆရာတော်ကြီးကလည်း ရှင်ပဏ္ဍိတအား ယခုကဲ့သို့ပြုစုချီးမြှောက်ခြင်းမှာ ပရိယတ္တိသာသနာတော်ကို ကောင်းစွာထမ်းရွက်

---

*၁ လယ်တီဦးကောဝိဒ၏ ဆရာဦးမောင်ကြီး၏ ဇနုပ္ပတ္တိကထာ။ ၁၃၀၁-ခုနှစ်။ (စာမျက်နှာ-၁၄)။

*၂ ကျိုက်လတ်ဆရာချစ်၏ လယ်တီပဏ္ဍိတ(ဆောင်းပါး)။ လယ်တီပဏ္ဍိတ။ စာပေလောကစာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၃ ခုနှစ်။ (စာမျက်နှာ-၁၄၅)။

*၃ လယ်တီဦးကောဝိဒ၏ ဆရာဦးမောင်ကြီး၏ ဇနုပ္ပတ္တိကထာ။ ၁၃၀၁-ခုနှစ်။ (စာမျက်နှာ-၁၅)။

နိုင်မည့် ရှင်ပဏ္ဍိတ၏ဗျတ္တိဗလကို သိမြင်ခြင်းကြောင့်ပင်ဖြစ်သည်။ စာတော်သူ, စာတတ် လွယ်သူတို့ သာသနာ့ဘောင်သို့ရောက်ရှိလာလျှင် ထိုပုဂ္ဂိုလ်ကိုအမှီပြု၍ သာသနာတော်သည် ကြီးပွားနိုင်သည်ဖြစ်၍ ပညာချွန်သူရှင်ပဏ္ဍိတကိုလည်း ဆရာတော်ကြီးက သာသနာအတွက် အားထားရမည့်ပုဂ္ဂိုလ်ဟူ၍ ထိုစဉ်အခါကပင် များစွာမျှော်လင့်ထားတော်မူခဲ့သည်။

ထို့ပြင် ဆရာတော်ကြီးက ရှင်ပဏ္ဍိတမှာ အရာရာချို့တဲ့သည်ဖြစ်၍ ရှင်ပဏ္ဍိတအပေါ် တွင် မိမိ၏ကျေးဇူးများဖြင့် တစ်သက်လုံးဖုံးအုပ်ကွပ်ကဲထားမည်ဟု ရည်မှန်းချက်ရှိတော်မူပါသည်။ ထို့ကြောင့်လည်း တစ်ခါသော် ဆရာတော်ကြီးက ရှင်ပဏ္ဍိတအား-

'နင့်မှာ ဖအေလည်းမရှိ, မအေလည်းမရှိ, ဆွေမျိုးရှိသော်လည်း အားကိုးမရ၊ ငါ့ကိုသာ နင်အားကိုးရမည်၊ နင့်ကို တစ်သက်လုံး ငါက ကျေးဇူးများဖြင့် မထနိုင်လောက်အောင်ဖုံးအုပ်ထားမည်၊ နင်က ငါ့အား ဘာတစ်ခုမျှ ပြန်လှန်၍ကျေးဇူး မတုံ့ပြန်နဲ့၊ စာကိုသာကြိုးစားသင်'ဟူ၍လည်း မိန့်တော်မူခဲ့ပါသည်။*၁

ရှင်ပဏ္ဍိတသည် လယ်တီဆရာတော်ကြီး၏လက်ဆွဲပုံးပမာ သွားလေရာရာပါရလျက် ဆရာတော်ကြီး၏အတွင်းရေးမှူးကဲ့သို့ဖြစ်နေရာ လယ်တီတိုက်ကြီးအတွင်း၌ စာချဘုန်းကြီး တပည့်ကြီးများ မတင်လျှောက်ဝံ့သောအချက်တို့ကိုပင် ရှင်ပဏ္ဍိတက လျှောက်တင်ခွင့် ရရှိခဲ့လေသည်။

လယ်တီဆရာတော်ကြီးသည် မိဘမဲ့ရှင်ပဏ္ဍိတအား သားရင်းတမျှချစ်ခင်သောကြောင့် ရှင်ပဏ္ဍိတ နေထိုင်မကောင်းရှိခဲ့လျှင် ကိုယ်တော်တိုင်ဆေးတိုက်ကျွေးသည်။ နှိပ်နယ်ပြုစုပေး သည်။ ဆရာတော်ကြီးဂရုစိုက်လွန်းသည့်အတွက် လယ်တီတိုက်အတွင်း၌ ရှင်ပဏ္ဍိတအပေါ် မရှုမစိမ့်ဖြစ်လာပြီး တီးတိုးစကားချင်းဆိုပြောကြရာ တစ်ကြိမ်တွင် လယ်တီဆရာတော်ကြီးသည် ရိပ်သံဖမ်းမိတော်မူ၍ ပရိသတ်လေးပါးအလယ်၌ပင်-

'တပည့်တို့၊ နွားခြံထဲမှာ နွားတွေအမျိုးမျိုးရှိသော်လည်း ချိုကောင်းကောင်း နှင့် အားကောင်းသည့်နွားကိုသာ ရွေးချယ်ပြီး ဝ,အောင်ကျွေးမှ ကျေးဇူးခံစားရ သည်၊ အလျားတိုတို, စအိုချွန်းချွန်းနှင့်နွားတို့ကိုကျွေးနေလျှင် မြက်ကုန်ရုံသာ ရှိသည်၊ ကျေးဇူးမခံစားရ'

ဟု ခပ်တင်းတင်းမိန့်တော်မူလေသည်။ အခြားရဟန်းတို့မှာ မည်သို့မျှပြန်၍မပြောဝံ့အောင် ဖြစ်ခဲ့ကြသည်။*၂

ရှင်ပဏ္ဍိတအပေါ် ဆရာတော်ကြီး၏အရေးပေးမှု၊ ဂရုစိုက်မှုတို့သည်လည်း ရံခါ၌ အလွန် အကျွံဖြစ်တတ်လေရာ အရေးပေးခံရသူရှင်ပဏ္ဍိတသည်ပင် စာသင်ချိန်ကြာမြင့်လွန်းသောကြောင့် ကိုယ်လက်ညောင်းညာသည့်ဝေဒနာဖြစ်ခဲ့ရပြီး စိတ်မရှည်နိုင်တော့ပေ။

---

*၁ လယ်တီဦးကောဝိဒ၏ ဆရာဦးမောင်ကြီး၏ဇေယျပွတ္တိကထာ။ ၁၃၀၁-ခုနှစ်။ (စာမျက်နှာ-၁၉)။

*၂ ယင်း။ (စာမျက်နှာ-၂၁)။

တစ်ခါသော် ဆရာတော်ကြီးသည် နေ့ဆွမ်းစားပြီးချိန် နေ့ ၁၂–နာရီခန့်မှစ၍ ရှင်ပဏ္ဍိတ တစ်ဦးတည်းကိုစာချရာ ညနေလေးနာရီကျော်မှစာချ၍ပြီးသည်–ဟူ၏။

တစ်ခါသော် သဒ္ဒနီတိကျမ်း ပဒမာလာအပိုင်းကို ပေထုပ်ဖြင့်ပို့ချနေရာ ညနေစောင်းသော်လည်း ဆရာတော်ကြီးသည် စာချမရပ်နားဘဲ ဆက်လက်ပို့ချနေခဲ့သည်။ ရှင်ပဏ္ဍိတသည် မခံရပ်လောက်အောင်ညောင်းညာလွန်းသောအခါ ရှေ့၌ချထားသော ပေရွက်ထဲမှစာကို မမြင်ချင်ယောင်ပြု၍ ရှေ့သို့မဆက်ဘဲ တမင်ရပ်နေ၏။ ထိုအခါ ဆရာတော်ကြီးက– 'ဟဲ့–ပဏ္ဍိတ၊ နင့်မှာစာကျော်သွားသလား။ သည်နားရောက်နေပြီ၊ ကြည့်ပါ၊ ကဲ–ဆိုလေ' ဟု လက်ညှိုးညွှန်ပြီး မိန့်တော်မူလေသည်။ ရှင်ပဏ္ဍိတလည်း မိမိပြုလုပ်မိသည့်လက်စနှင့် မမြင်ဟန်ပြုနေပေရာ ဆရာတော်ကြီးသည် ပေထုပ်ကိုဆွဲငင်ပြီး– 'သွား–နင် ငါ့စိတ်ကောက်တာ၊ ငါ့ဆီကို ဘယ်တော့မှ မလာနဲ့'ဟု နှင်ထုတ်လေသည်။ ရှင်ပဏ္ဍိတသည် ထပြန်ခဲ့ပြီး 'နေရာကျလိုက်တာ၊ ခုမှပဲ ဝင်္ကျွတ်တော့တယ်'ဟုလည်း စိတ်ထဲကဖြစ်နေလေသည်။ သုံးလေးရက်ခန့်ကြာသောအခါ လယ်တီဆရာတော်ကြီးသည် စိတ်ပြေနေပြီဖြစ်ရာ ရှင်ပဏ္ဍိတမလာသဖြင့်– 'ဟဲ့ ပဏ္ဍိတ၊ လာ–စာတက်ရအောင်'ဟု ခေါ်ပြန်လေသည်။ ဤသို့ဖြစ်ရပ် မျိုးမှာ မကြာခဏဖြစ်တတ်သဖြင့် ဆရာတပည့်နှစ်ဦးအဖို့ ရိုးနေပြီဖြစ်ပါသည်။*၁

တစ်ခါသော် ဥပုသ်တစ်နေ့၌ ဆရာတော်ကြီးသည် ရှင်ပဏ္ဍိတကိုခေါ်ပြီး မိမိသုံးဆောင်နေသော မွှန်းနံ့ဆေးမြစ်၏ အာနိသင်ကြီးမားပုံအကြောင်းကို ချီးကျူးပြောဆိုတော်မူပြီး အသက်ငယ်ငယ်ကပင် ဆေးဝါးစားသောက်ရန်လိုအပ်ကြောင်း–စသည်ဖြင့် ရှည်လျားစွာပြောဆိုနေတော်မူရာ သုံးနာရီခန့်ပင်ကြာလေသည်။

ရှင်ပဏ္ဍိတသည် မိမိ၌မည်သည့်ရောဂါမျှမရှိဘဲ ယခုကဲ့သို့ သုံးနာရီနီးပါးခန့် ဆေးဝါးအကျိုးအာနိသင်ကိုဟောပြောနေခြင်းသည် မိမိအားဒဏ်ခပ်ခြင်းဟု အကောက်လွဲပြီး– 'တပည့်တော်သည် လောက၌ ဝမ်းနုတ်ဆေးနှင့်နှာဆေးမှတစ်ပါး အခြားဆေးတို့ကိုမယုံပါ'ဟု လျှောက်ထားလေသည်။

ထိုအခါ လယ်တီဆရာတော်ကြီးသည် ရှင်ပဏ္ဍိတ ကန့်လန့်လျှောက်မှန်းသိတော်မူ၍ ရုတ်ချည်းထပြီး ခြေနှင့် ၃,၄–ကြိမ်ကန်ကျောက်ကာ– 'သွား–နင်ငါ့ဆီမလာနဲ့၊ နင့်ကို ငါမမြင်ချင်ဘူး၊ နင့်ကိုကန့်လန့်လုပ်မှုအတွက် ငါကပြုစုထားရသလိုဖြစ်နေပြီ'ဟု မိန့်ဆိုတော်မူလေ၏။ ထိုသို့ဖြစ်ပြီးမကြာမီမှာပင် ဆရာတပည့်နှစ်ဦး ပြန်လည်သင့်မြတ်နေကြပြန်ပေသည်။*၂

## ကဗျာပဏ္ဍိတ

လယ်တီဆရာတော်ကြီးအပါး၌အတူနေခဲ့ရသည့်အတွက် ရှင်ပဏ္ဍိတတွင် လယ်တီဂိုဏ်း၏ ထူးခြားသောအမှတ်လက္ခဏာတို့သည် ထင်ဟပ်၍လာလေသည်။ လယ်တီဂိုဏ်း၏ထူးခြားသော

---

*၁ လယ်တီဦးကောဝိဒ၏ **ဆရာဦးမောင်ကြီး၏ နေပွဲတ္တိကထာ။ ၁၃၀၁–ခုနှစ်။ (စာမျက်နှာ–၂၂)။**

*၂ **ယင်း။** (စာမျက်နှာ–၂၃)။

အမှတ်လက္ခဏာမှာ 'စာတတ်ခြင်းတူလျှင် မြန်မာစာပေဗဟုသုတ အခြေအရံနှင့်တကွတတ်သည်၊ စကားအပြောတတ်သည်၊ စာရေးနေရာကျသည်၊ အဘိဓမ္မာမျက်စိရှိသည်၊ လူရည်လူသွေး လူ့စွမ်းလူ့စရှိသည်' စသည့်လက္ခဏာတို့ပင်ဖြစ်သည်။[*၁]

ရှင်ပဏ္ဍိတသည် ကဗျာ,လင်္ကာစာအဖွဲ့ ဝါသနာထုံသဖြင့် ဆရာတော်ကြီးထံမှ ကဗျာစပ်နည်းကိုရခဲ့ပေသည်။ လယ်တီတိုက်သို့ ရှင်ပဏ္ဍိတရောက်ရှိသည့်အချိန်မှစ၍ ပထမဦးဆုံး ရေးဖွဲ့သည်ဟုပြောစမှတ်ရှိသော 'လယ်တီတိုက်ကြီးဘွဲ့တေးထပ်' မှာ အောက်ပါအတိုင်းဖြစ်သည်။

လယ်တီတိုက်ကြီးဘွဲ့တေးထပ်

နန္ဒမူဖန်ဂူကျွေ့၊ ဉာဏ်ယူမွေ့ စံဘွယ်။
ရန်မြို့ငွေ့အန္တရာယ်မှာ၊ မှန်တကယ် သန့်ရှင်း။
ယောဂီမှ ပဒေသာငယ်၊ ကေစာ ကျင့်တဲ့သတင်း။
မဟာဝုန့်စုံမြိုင်လို၊ ထုံဂနိုင်ပင်မင်း။
ရဂုံလှိုင်သဇင်သင်း။ မြအင်ကြင်းကန့်ကော်၊
တိုက်လယ်တီ မည်ပြုဆန်း၊ သည်ဥဒါန်း စိုက်လို့ထင်ပေါ်။
ပညာညွန့် ပွင့်တုန်းမျှော်တယ်၊ ရှင့်ဘုန်းတော် ထိန်လင်းလို့၊
ရဝိန်မင်း ဒေါင်းနေစကြာ၊ သောင်းမြေလက်ျာ။
ဇေတဝန် ကျောင်းဝိဟာလို၊ သောင်းဒီပါ ထင်ရှာဘို့လေး။ ။[*၂]

ဗာဟုဿုတ သတိမဝါဆိုတော်မူခြင်း

လယ်တီဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၅၉–ခုနှစ်၊ ဝါဆိုလ(အေဒီ ၁၈၉၇–ခုနှစ်၊ ဇူလိုင်လ)တွင် မုံရွာမြို့ မဟာလယ်တီတိုက်မှာပင် (၃၂)ကြိမ်မြောက်ဗာဟုဿုတသတ်မဝါကို ကပ်ဆိုတော်မူခဲ့ပါသည်။

ဤကာလအတွင်း လယ်တီဆရာတော်ကြီးသည် ရှင်ပဏ္ဍိတကိုရင် မဟာလယ်တီတိုက်သို့ ရောက်ရှိလာသည်နှင့် ထိုကိုရင်ငယ်ကိုပြုစုစောင့်ရှောက် မြေတောင်မြှောက်ရင်းဖြင့်ပင် မိမိ၏ပဓာန လုပ်ငန်းဖြစ်သော ဝိပဿနာဘာဝနာအလုပ်ဘက်က အတန်ငယ်ဆုတ်ယုတ်ခဲ့ရသော်လည်း စာသင်စာချပရိယတ်လုပ်ငန်းဘက်ကမူ မိုမို့၍ဆောင်ရွက်တော်မူနိုင်ခဲ့လေသည်။ ထို့ပြင် တိုက်တာ အတွင်းစာချနေမှုကြောင့် ကျန်အချိန်များတွင် စာပေပြုစုရေးသားခြင်း အလုပ်ကိုလည်း အထူး အားစိုက်လုပ်ဆောင်တော်မူပေသည်။ ရှေးရှေး မန္တလေးမြို့စံကျောင်းတိုက်၌နေစဉ်ကပင် ကြံစည် ခဲ့ဖူးသော အဘိဓမ္မတ္ထသင်္ဂဟခေါ် သင်္ဂြိုဟ်ကျမ်းကိုဖွင့်ဆိုသော သင်္ဂြိုဟ်မဟာဋီကာသစ်ကိုလည်း ဆက်လက်ရေးသားတော်မူခဲ့ပါသည်။

---

*၁ ဒုတိယနှစ်ဦးလှဘော၏ လယ်တီအမွေ(ဆောင်းပါး)။ လယ်တီဦးကောဝိဒ ပုပ္ပါးဦးကျော်ရင်။ ကြီးပွားရေးပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၇၀–ပြည့်နှစ်။ (စာမျက်နှာ–၃၁)။

*၂ လယ်တီဦးကောဝိဒ၏ ဆရာဦးမောင်ကြီး၏ နေ့ပွဲတွင်ကထာ။ ၁၃၀၁–ခုနှစ်။ (စာမျက်နှာ–၁၅)။

**ပရမတ္ထဒီပနီ**

သက္ကရာဇ် ၁၂၅၉-ခု တစ်ဝါတွင်းလုံး လယ်တီဆရာတော်ကြီးသည် ပရမတ္ထဒီပနီအမည်ရှိသော သင်္ဂြိုဟ်မဟာဋီကာသစ်ကို ပါဠိဘာသာဖြင့်ရေးသားပြုစုတော်မူခဲ့ပါသည်။ ဤကျမ်းကို လယ်တီဆရာတော်ကြီးသည် စာသင်သားဘဝမှစ၍ နှစ်ပေါင်းများစွာကြာအောင် အချက်အလက်များရှာဖွေစုဆောင်းခဲ့ရသောကျမ်းစာဖြစ်သည်။ မန္တလေးမြို့ စံကျောင်းတိုက်ကြီး မီးဘေးသင့်သည့်အခါ စုဆောင်းထားခဲ့သမျှမှတ်စုမှတ်ရာများသည် မီးသင့်သည့်အထဲပါဝင်ပြီး ပျက်စီးခဲ့ရလေသည်။ နောက်ထပ်အသစ်တစ်ဖန် ပြန်လည်စုဆောင်းရေးသားခြင်းမပြုဘဲ လျစ်လျူရှုနေတော်မူခဲ့သည်။ မုံရွာမြို့၌ လယ်တီကျောင်းတိုက်ကြီးကို တည်ထောင်ပြီးသည့်အချိန်တွင် ဓမ္မန္တေဝါသိက တပည့်အပေါင်းတို့က တောင်းပန်ကြသောကြောင့်တစ်ကြောင်း၊ ဤအချိန်၌ ဤကျမ်းစာပေါ်ထွန်းရန် အခွင့်အခါကြုံပြီဖြစ်သည်ကတစ်ကြောင်းတို့ကြောင့် သင်္ဂြိုဟ်မဟာဋီကာသစ်ကို ရေးသားရန်အတွက် ပြင်ဆင်တော်မူခြင်းဖြစ်ပါသည်။

**စင်စစ်** ဤသင်္ဂြိုဟ်မဟာဋီကာသစ်ကျမ်းသည် အရှင်အနုရုဒ္ဓါ၏သင်္ဂြိုဟ်ကျမ်းကို ဖွင့်ဆိုရုံမျှသာမက ထိုသင်္ဂြိုဟ်ကျမ်း၏အဖွင့် ဋီကာကျော်ကျမ်း၌ မသင့်သောအချက်များကို ရှင်းလင်းထောက်ပြထားသောကျမ်းဖြစ်ပါသည်။ ထို့ပြင် ဋီကာကျော်ကျမ်းကိုဖွင့်ဆိုသော မဏိသာရမဥ္ဇူသာကျမ်းကိုလည်း အတော်ကြီးဝေဖန်ထားသည်။ ဤကျမ်းစာကိုရေးသားရာတွင် ဋီကာကျော်၊ မဏိသာရမဥ္ဇူသာ စသောကျမ်းတို့ကို စွဲလန်းကြသောပညာရှင်တို့ ဖတ်ရှုကြရလျှင် မခံမရပ်ဖြစ်ကြလိမ့်မည်ကို သိလျက်နှင့် အမှန်ဘက်မှရပ်တည်ကာ ကောင်းမြတ်သောစေတနာနှင့် မည်သူ့အားမျှမတိုင်ပင်ဘဲ တစ်ကိုယ်တည်းရဲဝံ့စွာ ရေးသားပြုစုခဲ့ခြင်းဖြစ်သည်။ ဤသို့ သင်္ဂြိုဟ်မဟာဋီကာပါဠိကျမ်းပြုစုခြင်းနှင့်စပ်လျဉ်း၍ မိမိ၏စိတ်ထားကို နောင်အခါ၌ တပည့်ဒကာရင်းဖြစ်သူ မြန်မာအဆွေ (အေဝမ်း)သူဌေးဦးဘညွန့်[*၁]အား-

> 'လုပ်သင့်, မလုပ်သင့် ချင့်ချိန်စဉ်းစားပြီးတိုင်ပင်နေလျှင် ဝိုင်းဖျက်ကြတာနဲ့ ဒီကျမ်း(သင်္ဂြိုဟ်မဟာဋီကာသစ်)ရေးဖြစ်မှာမဟုတ်ဘူးကွယ့်၊ ဒါကြောင့် ဘယ်သူ့ကိုမှမတိုင်ပင်ဘဲ **တစ်ယောက်ထဲကြိတ်ပြီးရေးခဲ့တာပဲကွဲ့'-ဟု မိန့်တော်မူဖူးလေ** သည်။

လယ်တီဆရာတော်ကြီးသည် ပရမတ္ထဒီပနီကျမ်း၌ သင်္ဂြိုဟ်ကျမ်း၊ သင်္ဂြိုဟ်အဖွင့်ဋီကာဟောင်း၊ ဋီကာသစ်(ဋီကာကျော်)နှင့် မဏိသာရမဥ္ဇူသာတို့ကို သဒ္ဒါနည်းအားဖြင့်လည်းကောင်း၊ အဘိဓမ္မာဆိုင်ရာ နည်းအားဖြင့်လည်းကောင်း သုံးသပ်ဝေဖန်ထားခဲ့ပေသည်။ သင်္ဂြိုဟ် အဖွင့်ဋီကာ

[*၁] **အေဝမ်းဦးတင်နွယ်၊** အေဝမ်းဦးတင်**မောင်တို့၏ ဖခင်** မြန်မာအဆွေကုမ္ပဏီပိုင်ရှင် သူဌေးကြီးဦးဘညွန့်ဖြစ်သည်။ **တစ်ချိန်သောအခါက** သူဌေးဦးဘညွန့်က **မိမိဇာတိ** ပြည်မှ ရန်ကုန်မြို့သို့ရွှေ့ပြောင်းပြီး စီးပွားရေးလုပ်ငန်းချဲ့ထွင်ရန်အတွက် လယ်တီဆရာတော်ကြီးအားလျှောက်ထား**သောအခါ** လယ်တီဆရာတော်ကြီးက ဦးဘညွန့်အား 'ဟေ့-မောင်ဘညွန့်၊ မင်းသိပ်တိုင်ပင်မနေနဲ့၊ ကိုယ်လုပ်စရာရှိတာ ကိုယ့်ဘာသာရဲရဲဝံ့ဝံ့စွာဆုံးဖြတ်၍လုပ်ကွဲ့'ဟု မိန့်ကြားပြီး မိမိ သင်္ဂြိုဟ်မဟာ**ဋီကာသစ်** ရေးစဉ်ကအကြောင်းကို အထက်ပါ**အတိုင်း အမှတ်တရပြန်လည်မိန့်ကြားခြင်းဖြစ်ပါသည်။**

ဟောင်းမှာ နဂိုကပင်ချို့ယွင်းချက်များစွာပါရှိနေခဲ့သည်။ ဋီကာဟောင်းဆရာကို အရှင်သာရိပုတ္တရာ၏တပည့် ရှင်နဝဝိမလဗုဒ္ဓိဟုလည်းယူဆကြသည်။*၁

လယ်တီဆရာတော်ကြီး၏ရှာဖွေချက်အရ ဋီကာကျော်၌ သဒ္ဒါအမှား၊ အဘိဓမ္မာပညာရပ်ဆိုင်ရာအချက်အလက်အမှား နှစ်ရပ်ပေါင်းနှစ်ရာကျော်ရရှိခဲ့ပါသည်။ ထိုအမှားတို့ကို ထုတ်ဖော်ပြရာ၌ ရေးယခင်စံကျောင်းတိုက်၌နေစဉ် စကားအရာမောက်မာလွန်းသော သီဟိုဠ်စာသင်သားတို့အပေါ် စိတ်နာထားသည့်အရှိန်မသေသေးသည့်အလျောက် ဋီကာကျော်၊ မဏိသာရမဉ္ဇူတို့ကိုဝေဖန်ရာတွင် 'န သုန္ဒရံ န ယုဇ္ဇတိ၊ န သမေတိ'စသောစကားလုံးတို့ဖြင့် ပြင်းပြင်းထန်ထန် ရက်ရက်စက်စက် ရေးထားတော်မူခဲ့သည်။

လယ်တီဆရာတော်ကြီး၏ ပရမတ္ထဒီပနီကျမ်းသည် အဋ္ဌကထာ,ဋီကာတို့နှင့်တကွ နိကာယ်ငါးရပ် ပိဋကတ်သုံးပုံအလုံးစုံကို အကုန်မွှေနှောက်တိုက်ဆိုင်ကာ ရေးသားထားခြင်း၊ မှတ်သားဖွယ်အစဉ်အဆက် အာစရိယဝါဒများနှင့် ထူးခြားဆန်းကြယ်သည့်သဒ္ဒါအဆုံးအဖြတ်၊ အနက်အဆုံးအဖြတ်များပါရှိခြင်း၊ ကြည်လင်သန့်ရှင်းသောပုဒ်,ဗျည်း,အက္ခရာ,သဒ္ဒါအနေအထားများဖြင့် ရေးသားထားခြင်းတို့ကြောင့် ပညာရှိအများများစွာကပင် ကောင်းတင်းပြောပ ချီးကျူးကြလေကုန်၏။

လယ်တီဆရာတော်ကြီးသည် ဤကျမ်းပြုရာ၌ မည်သူကိုမျှမတိုင်ပင်ဘဲ ပြုတော်မူခဲ့လင့်ကစား ပြုစုပြီးသမျှစာတို့ကိုမူကား နောင်တော်ကြီးသဖွယ်အလေးအမြတ်ထားသော မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးထံတော်သို့ ပေထက်ကောင်းစွာတင်လျက် စာလွှာတစ်စောင်နှင့်အတူ ဆက်ကပ်ခဲ့ဖူးပါသည်။ မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးထံသို့ လယ်တီဆရာတော်ရေးပို့သောစာလွှာတွင်–

> 'ဘုရားတပည့်တော်ရေးသားအပ်သော ဤသင်္ဂြိုဟ်မဟာဋီကာသစ်ကျမ်းလာစာတို့သည် မသင့်ဟုထင်ပါက ဘုရား၌ မီးရှို့ပူဇော်တော်မူပါဘုရား၊ အရှင်ဘုရားမီးရှို့ပူဇော်ခဲ့သော် ထိုမီးသည် ဘုရားတပည့်တော်အတွက် အအေးပါဘုရား'ဟူ၍ ရေးသားကြောင်း သိရပါသည်။

## ပုဒ်မကြီးတွေများလွန်း

မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးသည် လယ်တီဆရာတော်ကြီးထက် ဝါတော် ၈–ဝါကြီးတော်မူ၏။ မင်းတုန်းမင်းလှူခဲ့သော 'ဝိသုဒ္ဓါစာရကဝိဇမဟာဓမ္မရာဇာဓိရာဇဂုရု' တံဆိပ်တော်နှင့် သီပေါမင်းကပ်လှူခဲ့သော 'ဝိသုဒ္ဓါစာရာဘိဇဓိပတိပဝရဓမ္မရာဇာဓိရာဇဂုရု' တံဆိပ်တော်နှစ်ရပ်ကို အလှူခံယူတော်မူရသော ရာဇဂုရုမင်းဆရာတော်ကြီးဖြစ်ပါသည်။ ဝိနည်းတော်ကိုစောင့်ရှောက်ရာ၌ အလွန်သိပ်သည်းသဖြင့် အနီးနေသူတို့ပင် အကြည်ညိုမပျက်နိုင်သော ဆရာတော်ဘုရားကြီးဟု ထင်ရှားကျော်စောပေသည်။ လယ်တီဆရာတော်ကြီးသည် မန္တလေးမြို့၌

*၁ စတုတ္ထမြစ်ကွေ့ဆရာတော်ဦးပညာဝံသမထေရ်ကမူ ဋီကာဟောင်းကို သီဟိုဠ်ကျွန်း ဉဒုမ္ဗရဂိရိကျောင်းနေ မဟာကဿပ ပြုစုသည်ဟု ပြဆိုပါသည်။

သီတင်းသုံးနေတော်မူစဉ်အခါကပင် မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးနှင့် အယူဝါဒတူမျှကာ ရင်းနှီးကျွမ်းဝင်ခဲ့သည်ဖြစ်၍ မိမိရေးသားပြီးသောကျမ်းကိုစိစစ်ပေးတော်မူပါရန် မဟာဝိသုဒ္ဓါရုံဆရာတော် ဘုရားကြီးအထံတော်သို့ ဆက်ကပ်ခြင်းဖြစ်လေသည်။ မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးသည် သင်္ဂြိုဟ်မဟာဋီကာသစ်အစ စိတ်ပိုင်းကိုကောင်းစွာဖတ်ရှုပြီးနောက်– 'ကောင်းလှသဗျာ၊ နို့ပေမယ့် ပုဒ်မကြီးတွေများလွန်း'ဟု အမိန့်ရှိတော်မူလေသည်။*၁

ရှေးကစာရေးကြရာ၌ ပုဒ်သေး,ပုဒ်ကြီး,ပုဒ်ထီး,ပုဒ်မ–စသည်ထည့်ခြင်း၊ ခေါင်းစဉ်ကြီးငယ်တပ်ပြီး စာပိုဒ်ခွဲခြင်း စသည်တို့ကို ပြုလုပ်ရိုးထုံးစံမရှိခဲ့ချေ။ စာပိုဒ်တစ်ခု စ,မိလျှင် အစမှအဆုံး ပုဒ်ထီးတစ်ခုတည်းအဆုံးသတ်ကာ စာပိုဒ်အတွင်း၌ အဖြတ်အတောက်အရပ်အနားမရှိ ဆက်တိုက်တစ်ပြင်တည်း တောက်လျှောက်ရေးသားသောအလေ့ရှိခဲ့ပေသည်။

ယခု လယ်တီဆရာတော်ကြီးကမူ ဖတ်ရှုသူတို့ ဖတ်ရလွယ်ကူစေရန်၊ အမြင်သပ်ရပ်စေရန် စသည့်အကျိုးတို့ကိုမျှော်ကိုး၍ အစဉ်အလာစာစီပုံကိုစနစ်တကျပြုပြင်ပြီး ပုဒ်မ,ပုဒ်ထီးများနှင့် ရေးသားထားပေရာ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးက 'ပုဒ်မကြီးတွေများလွန်း'ဟု မိန့်တော်မူခြင်း ဖြစ်ဟန်တူပါသည်။

ဤသို့ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ ပုဒ်မကြီးများခြင်းမိန့်ဆိုချက်နှင့်စပ်၍ လယ်တီဆရာတော်ကြီးက အောက်ပါအတိုင်းရှင်းလင်းလျှောက်ထားခဲ့ပါသည်။

ပရမတ္ထဒီပနီ၌ ပုဒ်မကြီးများလွန်းသည်မှာ–

၁။ ငယ်စဉ်အခါက ပုဒ်သေး,ပုဒ်မ မကျနချက်များလှသော အနုဋီကာပါဠ်, မဓုဋီကာပါဠ် များကို ကြည့်ရှုရသောအခါ ဝါကျအပိုင်းအခြား ရှေ့သွားနောက်ပြန်ကြဲဖန်ရမှုနှင့် အလွန်ငြီးငြင်ခဲ့ဖူးပါသည်–တစ်ရပ်။

၂။ ဋီကာကျော်ချစဉ်အခါ အက္ခရာတစ်လုံးပင်ဖြစ်သော်လည်း စာဝါကျဖြစ်ထိုက်လျှင် ပုဒ်မကြီးတစ်ခုစီနှင့် ရေးထားရှိနေသော မဏိမဥ္ဇူမူဟောင်းတစ်စောင်ကို ကြည့်ရှုရရာ ဝါကျအပိုင်းအခြား ရှေ့သွားနောက်ပြန် ကြံစည်ဖွယ်မရှိ ဆွဲကာငင်ကာ ပြောဆိုရ၍ အလွန်ချမ်းသာခဲ့ဖူးသည်–တစ်ရပ်။

၃။ ပုဒ်သေး–ဆိုသည်မှာ အလွန်ပျက်လွယ်သည်၊ ပုဒ်မသာ ထာဝရဖြစ်နိုင်သည်၊ တရားကျမ်းဂန်မည်သည် ဉာဏ်မတွန့်ရဘဲ ချောခနဲချောခနဲ ရှင်းခနဲရှင်းခနဲ မြန်မြန်ကြီးသိရ၍ သွားမှကောင်းသည်ဟု စိတ်စွဲလမ်းရှိပါသည်–တစ်ရပ်။

---

*၁ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးသည် သင်္ဂြိုဟ်မဟာဋီကာသစ်ပါဠ်၌ (၁) သသဒ္ဓမ္မဂဏုတ္တမံ–ပုဒ်သမဝါယအဖွင့်တွင် ဂုဏသမဝါယကိုရေးခြင်းနှင့်စပ်၍ ဝေဖန်သည်။ ဤသို့ဝေဖန်သည်ကို လယ်တီဆရာတော်ကြီးကလည်း လယ်တီစာသင်နည်းစာလွှာ တွင် ထည့်၍ဖြေရှင်းလျှောက်ထားခဲ့သည်။ လယ်တီဆရာတော်ကြီး၏ သာသနဝိသောဓနီ၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ ၁၉၆–၂၁၀)။ (၂) သင်္ဂြိုဟ်ဋီကာသစ်တွင် 'ပရိသမာန–ဉာတိ' သဒ္ဒါများစွာပါရှိခြင်းကိုလည်း ဝေဖန်တော်မူပါသည်။ ယင်း။ (စာမျက်နှာ–၂၁၀)။

၄။ သို့အတွက်ကြောင့် ရေးရေးသမျှမှာပင် ပုဒ်မကြီးများ၍များ၍သွားပါသည်။ ပရမတ္ထဒီပနီမှာလည်း စိတ်ပိုင်းတွင်အတန်ကြီးများ၍သွားပါသည်။ နောက်အခါ၌ အရှင့်မှာစာတွင်ပါရှိသော အပြစ်ဒေါသများကို ဆင်ခြင်မိပြန်သည်နှင့် စိတ်ပိုင်းနောက်အဖို့ဆီမှစ၍ နောက်၌ အလွန်မများလှပါပြီ။–ဟူ၍ဖြစ်သည်။[*၁]

သက္ကရာဇ် ၁၂၅၉–ခုနှစ်၊ တန်ဆောင်မုန်းလ (အေဒီ ၁၈၉၇–ခုနှစ်၊ နိုဝင်ဘာလ)တွင် လယ်တီဆရာတော်ကြီးပြုစုလျက်ရှိသော ပရမတ္ထဒီပနီအမည်ရှိသော သင်္ဂြိုဟ်မဟာဋီကာ သစ်ပါဠိကျမ်းသည် ရေးသားပြီးစီးခဲ့လေသည်။

တိပိဋကနီတိ

ကိုရင်ရှင်ပဏ္ဍိတသည် သင်ဖွယ်ရာရာသင်ရိုးစာတို့ကိုသင်ယူပြီးသည့်နောက် မျက်စိပွင့်လင်းစေရန် အထွေထွေသောစာကောင်းပေကောင်းတို့ကို ဖတ်ရှုရန်လိုလာသည်။ အချို့က နီတိကျမ်းတို့ကို ဖတ်ရှုလေ့လာရန်ညွှန်ပြကြသည်။ မြန်မာနိုင်ငံတွင် ရှေးရှေးက ဆုံးမစာနီတိကျမ်းများစွာ ပေါ်ထွက်ခဲ့ရာတွင် လောကနီတိ၊[*၂] ဓမ္မနီတိ၊[*၃] မဟာရဟ နီတိ၊[*၄] ရာဇနီတိ၊[*၅] သုတဝမုနနီတိ၊[*၆] ဂိဟိဝိနယနီတိ[*၇]–စသည်ထင်ရှားခဲ့ကြပြီးဖြစ်သည်။

လယ်တီဆရာတော်ကြီးက ထိုထိုရှေးရေးနီတိတို့ကိုမနှစ်သက်ဘဲ ကိုယ်ပိုင်အစီအစဉ်ဖြင့် တိပိဋကနီတိကျမ်းကို ရှင်ပဏ္ဍိတအားသင်ကြားပေးရန်စီစဉ်တော်မူခဲ့ပါသည်။ ယခုတင်ပြလတ္တံ့ဖြစ်သော တိပိဋကနီတိသည်ကား လယ်တီဆရာတော်ကြီးနှင့် ရှင်ပဏ္ဍိတကိုရင်တို့ကိုအကြောင်းပြု၍ဖြစ်ပေါ်လာသော နောက်ဆုံးပေါ်နီတိဖြစ်သည်။ လယ်တီဆရာတော်ကြီးက ဤတိပိဋကနီတိသည် တစ်ကျမ်းလုံးကို အပြီးအစီးရေးပြီးမှ ရှင်ပဏ္ဍိတအား သင်ကြားပေးတော်မူခြင်း မဟုတ်ပေ။

သက္ကရာဇ် ၁၂၆၀–ပြည့်နှစ်၊ နှစ်ဆန်း ၁–ရက် (အေဒီ ၁၈၉၈–ခုနှစ်၊ ဧပြီလ၊ ၁၅–ရက်)နေ့တွင် လယ်တီ ဆရာတော်ကြီးက ပိဋကတ်သုံးပုံပါဠိတော်တို့မှ မိမိနှစ်သက်ရာဂါထာတစ်ခုကို ရွေးနုတ်ပြီး ရှင်ပဏ္ဍိတကိုကျက်စေသည်။ ကိုရင်နှုတ်တက်ရလျှင် အနက်သမ္ဗန်ရသည်။ အနက်ကိုသိပြီဆိုလျှင်

---

[*၁] လယ်တီဆရာတော်၏ သာသနဝိသောဓနီကျမ်း၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၂၁၀)။

[*၂] ပင်းယခေတ် စတုရင်္ဂဗလကြီး ပြုစုသည်ဟု အစဉ်အလာယူဆကြသည်။ အချို့က မူရင်းသက္ကတဘာသာဖြစ်ပြီး၊ စာဏက္ကပုဏ္ဏားပြုသည်။ မောင်လွင်ရည်(ဝိဇ္ဇာသိပ္ပံ)၏ လောကနီတိ။ ငွေစင်ကြိုးကြာစာပေ၊ ရန်ကုန်မြို့။ ၁၉၉၂–ခုနှစ်။ (စာမျက်နှာ–၅၉)။ အချို့က ဆရာတော်ဦးဖုဒ်ပြုသည်။ မြန်မာ့စွယ်စုံ၊ ၃။ ၃၃၃။

[*၃] မူလ သက္ကတနီတိဖြစ်ဟန်တူသည်။ ဘိုးတော်ဘုရားလက်ထက် ပထမဗားကရာသာသနာပိုင် မူလသက္ကတမှ ပါဠိသို့ပြန်ခဲ့ဟန်ရှိသည်။ ယင်း။ (စာမျက်နှာ–၂၇)။

[*၄] အင်းဝခေတ်တွင် အရှင်မဟာသီဝံသပြုသည်ဟု ယူဆကြသည်။

[*၅] အင်းဝခေတ် အနန္တဉာဏနှင့် ဂဏာမိဿက ပုဏ္ဏားဆရာနှစ်ဦးပြုသည်ဟု ယူဆကြသည်။ ယင်း။ (စာမျက်နှာ–၂၉)။

[*၆] ပခန်းကြီးစိရင်စု ချောင်းကောက်ရွာဇာတိ သျှင်သဒ္ဓမ္မနန္ဒီ၊ နောင်–အတွင်းဝန်ဗလရာဇာ (အေဒီ ၁၇၃၆–၁၇၉၃)ပြုသည်ဟု ယူဆသည်။

[*၇] ဂိဟိဝိနယသင်္ဂဟနီတိ–ဟုလည်းခေါ်သည်။ အင်းဝခေတ် ဆရာတော်ဦးဖုဒ်၏ လက်ရာဖြစ်သည်။

ထိုဂါထာ၏အဖွင့် အနက်အဓိပ္ပာယ်အကျယ်ကိုရှင်းလင်းပြသည်။ ဤသို့ဖြင့် တစ်နေ့ကို တစ်ဂါထာ၊ နေ့စဉ်နှင့်အမျှ နေ့ရက်များစွာကြာမြင့်လာသော် နေ့စဉ်ကျက်မှတ်လာရသောပါဠိဂါထာများနှင့် ရှင်းပြခဲ့သောအဓိပ္ပာယ်ရှင်းပြချက်တို့ စုပေါင်းလိုက်သည့်အခါ လယ်တီဆရာတော်ကြီးက ရှင်ပဏ္ဍိတအားပို့ချပေးတော်မူသော တိပိဋကနီတိ–အမည်ရှိသော ကျမ်းငယ်တစ်စောင်ဖြစ်ပေါ်လာလေသည်။[*၁]

ဤတိပိဋကနီတိသည် လယ်တီဆရာတော်ကြီးမျှော်မှန်းသည့်အထိ အပြီးတိုင်မရောက်ခဲ့။ အကြောင်းမှာ ပိဋကတ်သုံးပုံပါဠိတော်၌ မှတ်သားဖွယ်ရာပါဠိဂါထာဆိုသည်မှာ သိန်းသန်းမက များလှရကား ရှင်ပဏ္ဍိတအဖို့ ဘယ်မှာကျက်၍ကုန်အံ့ပါမည်နည်း။ ကျက်မကုန်လျှင် ဘယ်မှာ ဤတိပိဋကနီတိကျမ်း ပြီးဆုံးခြင်းသို့တိုင်ပေလိမ့်မည်နည်း။

မည်သို့ပင်ဆိုစေ လယ်တီဆရာတော်ကြီးသည် နီတိတကာ့နီတိတို့တွင် အကောင်းဆုံးနီတိဖြစ်သော ပါဠိတော်လာဂါထာတစ်ပုဒ်စီကို နေ့စဉ်ရွေး၍ ရှင်ပဏ္ဍိတအားကျက်စေပြီး စိတ်လက်ရှည်စွာရှင်းပြတော်မူခြင်းဖြင့် တိပိဋကနီတိကျမ်းကို ဖွင့်လှစ်ခဲ့ကြသည်။

၁၂၆၀–ပြည့်နှစ်၊ တန်ခူးလပြည့်ကျော် ၁၀–ရက် (နှစ်ဆန်းတစ်ရက်) (အေဒီ–၁၅၊ ဧပြီလ၊ ၁၈၉၆) တွင် ရှင်ပဏ္ဍိတအား ပထမဆုံးသင်ပေးသောနီတိပါဠိဂါထာမှာ–

ပစ္စုပ္ပန္နော စ ယော အတ္ထော၊[*၂]
ယောစတ္ထော သမ္ပရာယိကော။
အတ္ထာဘိသမယာ ဓီရော၊
ပဏ္ဍိတောတိ ပဝုစ္စတိ–ဟူသောဂါထာဖြစ်သည်။(သံ၊ ၁။၈၇၊ ၈၉–စသည်။)

ဤဂါထာ၏ဆိုလိုရင်းအဓိပ္ပာယ်မှာ–

‘မျက်မှောက်ပစ္စုပ္ပန်နှင့်ဆိုင်သောအကျိုးစီးပွား၊ နောင်တမလွန်လောကနှင့်ဆိုင်သောစီးပွားဟူ၍ လောက၌ အကျိုးနှစ်မျိုးရှိပေသည်။ ထိုအကျိုးနှစ်မျိုးကို လက်ဝယ်ပိုင်ပိုင်ရရှိနိုင်ခြင်းကြောင့် ခရေးနောင်ရေး မြော်တွေးသိမြင် ပညာရှင်ကို ပဏ္ဍိတ–ဟူသောဘွဲ့ထူးဖြင့် ချီးကျူးခေါ်ဆိုအပ်ပေသည်–ဟူ၍ဖြစ်သည်။

ဤဂါထာအရ လယ်တီဆရာတော်ကြီးက မိမိတပည့်ပဏ္ဍိတကို ပဏ္ဍိတဂုဏ်မပြည့်စုံလျှင် အမည်သာပဏ္ဍိတဖြစ်ပြီး တကယ့်ပဏ္ဍိတအစစ်မဟုတ်နိုင်၊ သို့ပါ၍ အမည်လည်းပဏ္ဍိတ–လူကလည်းပဏ္ဍိတ နှစ်ပါးစုံညီအောင်ကြိုးစားရန်ကို ရည်ညွှန်းပြီး အကျယ်တဝင့်ရှင်းပြကာ ဤဂါထာကို ကျက်မှတ်စေခဲ့ခြင်းဖြစ်သည်။[*၃]

[*၁] လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ တိပိဋကနီတိ(ဆောင်းပါး)။ လယ်တီတရားသတင်းစာ၊ အတွဲ–၁၊ နံပါတ်–၁၊ ၁၂၈၈–ခုနှစ်။ ဒုတိယဝါဆိုလ။ (စာမျက်နှာ–၃၀)။

[*၂] ဆဋ္ဌမူ ပါဠိ,အဋ္ဌကထာတို့၌ ‘ဒိဋ္ဌေဓမ္မေ စ ယော အတ္ထော’–ဟု အစရှိသည်။

[*၃] လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ တိပိဋကနီတိ(ဆောင်းပါး)။ လယ်တီတရားသတင်းစာ၊ အတွဲ–၁၊ နံပါတ်–၁၊ ၁၂၈၈–ခုနှစ်။ ဒုတိယဝါဆိုလ။ (စာမျက်နှာ–၃၁)။

သက္ကရာဇ် ၁၂၆၀-ပြည့်နှစ်၊ တန်ခူးလပြည့်ကျော် ၁၁-ရက် (နှစ်ဆန်းနှစ်ရက်) (အေဒီ-၁၈၊ ၄၊ ၁၈၉၈) နေ့တွင် လယ်တီဆရာတော်ကြီးက ဓမ္မပဒပါဠိတော်၊ ဗာလဝဂ်လာ အောက်ပါ ဂါထာကိုရွေးချယ်၍ ကိုရင်ပဏ္ဍိတကို ကျက်မှတ်စေပါသည်။ ယင်းဂါထာမှာ-

'ယော ဗာလော မညတိဗာလျံ၊
ပဏ္ဍိတော ဝါပိ တေန သော။
ဗာလော စ ပဏ္ဍိတမာနီ၊
သဝေ 'ဗာလော'တိ ဝုစ္စတိ။ ။(ဓမ္မ၊ ဂါထာ-၆၃။)ဟူ၍ဖြစ်သည်။

ဤဂါထာ၏လိုရင်းအဓိပ္ပာယ်မှာ-

**အကြင်သူမိုက်သည် မိုက်ပင်မိုက်သော်လည်း ငါလူမိုက်ပါလားဟု စဉ်းစား ဉာဏ်ပေါ်ပေါက်၏။ ထိုသို့စဉ်းစားမိလျှင် ထိုလူမိုက်သည် ပညာရှိစာရင်းဝင်နိုင်၏။** အကယ်၍ ထိုလူမိုက်သည် မိမိ၏မိုက်မဲမှုကိုမသိဘဲ ငါတတ်သိသည်ဟု၊ ငါပညာရှိသည်ဟု အထင်ကြီးနေပါက ထိုသို့သောသူမိုက်မျိုးသည်သာ လူမိုက်အစစ်-ဟု ဆိုထိုက်ကြောင်းဖြစ်သည်။

လယ်တီဆရာတော်ကြီး ပထမနေ့ (နှစ်ဆန်းတစ်ရက်)ကပေးသောဂါထာနှင့် ဒုတိယနေ့ (နှစ်ဆန်းနှစ်ရက်)ပေးသောဂါထာ ဤဂါထာနှစ်ပုဒ်နှင့်စပ်၍ ကိုရင်ပဏ္ဍိတသည် နောင်အခါ ဤသို့ မှတ်တမ်းတင်ရေးသားခဲ့ဖူးပါသည်။

သက္ကရာဇ် ၁၂၆၀-ပြည့်နှစ်၊ နှစ်ဆန်းနှင့် နှစ်ရက်နေ့တွင်ဖော်ပြခဲ့သော ပါဠိတော်ဂါထာဖြင့် အကျွန်ုပ်(လယ်တီပဏ္ဍိတ)အား ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးက ဆုံးမချက်ပေးတော်မူခြင်း၏အလိုဆန္ဒတော်မှာ သင်၏အမည်မှာ ပဏ္ဍိတဖြစ်သောအတိုင်း ပဏ္ဍိတလက္ခဏာနှင့်ပြည့်စုံစွာ ပဏ္ဍိတအမည်နှင့် ညီညွတ်ပါစေ။ ကိုယ်တတ်သည့် ပညာထက်အထင်အမြင်ကြီးသော ပဏ္ဍိတမာနီမျိုး မဖြစ်ပါစေလင့်၊ ပညာရှိဟု ခေါ်ဆိုသမုတ်အပ်သော်လည်း အရာရာကိုစုံလင်စွာ သိမြင်နိုင်လိမ့်မည် မထင်သင့်။ သဗ္ဗညုပုဂ္ဂိုလ်မြတ်ကြီးမှတပါး မည်သည့်ပုဂ္ဂိုလ်မှအလုံးစုံအကုန်သိနိုင်သည်မဟုတ်။ မိမိကိုယ်တိုင်မသိလျှင် မသိဟု အတည့်အလင်းဝန်ခံလွယ်ပါစေ။ သိယောင်ကား မပြုမချင်ပါလင့်- ဤသို့ ဆုံးမလိုသောဆန္ဒတော်ဖြင့် ဤဂါထာကို ရေးသားပေးသနားတော်မူပေသတည်း'-ဟူ၍ဖြစ်ပါသည်။*[၁]

သက္ကရာဇ် ၁၂၆၀-ပြည့်နှစ်၊ တန်ခူးလပြည့်ကျော် ၁၂-ရက် (အေဒီ-၁၇၊ ဧပြီလ၊ ၁၈၉၈) နေ့တွင် လယ်တီဆရာတော်ကြီးက ဇာတကပါဠိတော်၊ ကေနိပါတ၊ ကူဋဝါဏိဇဇာတ်တော်လာ အောက်ပါ ဂါထာကိုရွေးချယ်ပေး၍ ရှင်ပဏ္ဍိတအားကျက်စေပါသည်။ ယင်းဂါထာမှာ-

---

လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ တိပိဋကနိတိ(ဆောင်းပါး)။ လယ်တီတရားသတင်းစာ၊ အတွဲ-၁၊ နံပါတ်-၂။ ၁၂၈၈-ခုနှစ်။ ဝါခေါင်လ။ (စာမျက်နှာ-၁၅၊ ၁၆၊ ၂၁)။

သာဓု ခေါ ပဏ္ဍိတော နာမ၊
န တွေဝ အတိပဏ္ဍိတော။
အတိပဏ္ဍိတေန ပုတ္တေန၊
မနမှိ ဥပကူဠိတော–(ဇာတက၊ ဂါထာ–၉၈။)ဟူ၍ဖြစ်သည်။

ဤဂါထာ၏ဆိုလိုရင်းအဓိပ္ပာယ်မှာ–

'ဤလောက၌ နည်းမှန်လမ်းမှန် ပညာရှိ၍ ပဏ္ဍိတမည်ရုံသာ သင့်လျော်သည်။ အကျော်ထက်အကျော်၊ အမော်ထက်အမော် အခေါ်အဝေါ်အားဖြင့် အလွန့်အလွန်ပညာရှိ၍ အတိပဏ္ဍိတဖြစ်ခဲ့ပါလျှင် မကောင်းချေ။ အတိပဏ္ဍိတမည်သောသားတစ်ကောင်ကြောင့် ကိုယ်တစ်ခြမ်းမီးလောင်ခံရဖူးပြီ'–ဟူ၍ဆိုသည်။

ဤဂါထာနှင့်စပ်၍ လယ်တီဆရာတော်ကြီးက ရှင်ပဏ္ဍိတကိုရင်ငယ်အား 'လောကီ၊ လောကုတ္တရာ ခေတ်ကာလအားလျော်စွာ ပညာရှိသဘော၌သာ တည်တန့်၍နေပါ။ ထို့ထက်ထူးချွန်၍ အလွန့်အလွန်ပညာရှိသော အတိပဏ္ဍိတ မဖြစ်ပါစေလင့်။ ထို့ပြင် မည်သည့်အရာ၌မဆို အတိုင်းအတာပမာဏရှိသောအတိုင်း ထိုပမာဏအတွင်း၌သာ ရပ်တည်၍နေပါ။ ပမာဏထက် မပိုလွန်ချင်ပါနှင့်။ ပိုလွန်သောအရာဟူသမျှ ဖိတ်၍ကျလိမ့်မည်။ ချွန်လွန်းသောအရာဟူသမျှ အညွန့်ကျိုး၍ကျလိမ့်မည်'ဟု ပြောလိုရင်းဖြစ်သည်။ထို့ပြင် 'သင်၏အမည်သည် ပဏ္ဍိတဟူ၍ မှည့်ခေါ်အပ်သောအတိုင်း အတိုင်းအရှည်ပမာဏအားလျော်စွာ ပညာရှိ၍ ပဏ္ဍိတနယ်တွင်း၌သာ ရပ်တန့်၍တည်နေပါ။ မာန်မာနမွှန်၍ အလွန့်အလွန်သွေးကြွပြီးလျှင် အတိပဏ္ဍိတမဖြစ်ပါစေလင့်။ ကေနိပါတ်၊ ကူဋဝါဏိဇဇာတ်တော်၌လာရှိသော အတိပဏ္ဍိတ၏ဖြစ်ပုံကိုအမြဲဆင်ခြင်ပါ'–ဟု ဆုံးမတော်မူခဲ့ပါသည်။*၁

သက္ကရာဇ် ၁၂၆၀–ပြည့်နှစ်၊ တန်ခူးလပြည့်ကျော် ၁၃–ရက် (အေဒီ–၁၈၊ ဧပြီလ၊ ၁၈၉၈)တွင် လယ်တီဆရာတော်ကြီးသည် ခုဒ္ဒကနိကာယ်၊ သုတ္တနိပါတပါဠိတော်၊ ဥရဂဝဂ္ဂ၊ ခဂ္ဂဝိသာဏသုတ္တန်လာ အောက်ပါဂါထာကိုရွေးချယ်၍ ရှင်ပဏ္ဍိတအား ကျက်မှတ်စေခဲ့သည်။

သီဟောဝ သဒ္ဒေသု အသန္တသန္တော၊
ဝါတောဝ ဇာလမှိ အသဇ္ဇမာနော။
ပဒုမံဝ တောယေန အလိပ္ပမာနော၊
ဧကော စရေ ခဂ္ဂဝိသာဏကပ္ပေါ။ ။(သုတ္တနိ။ ဂါထာ–၇၁။)

ဤဂါထာ၏ဆိုလိုရင်းအဓိပ္ပာယ်မှာ–

'ခြင်္သေ့မင်းသည် အသံဟူသောအကြောင်းကြောင့် ကြောက်လန့်တုန်လှုပ်ခြင်းမရှိသကဲ့သို့လည်းကောင်း၊ လေသည် ပိုက်ကွန်၌ မကပ်ငြိ မတွယ်တာသကဲ့

*၁ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ တိပိဋကနိတိ။ လယ်တီတရားသတင်းစာ၊ အတွဲ–၁၊ နံပါတ်–၃။ ၁၂၈၀–နှစ်၊ တော်သလင်းလ။ (စာမျက်နှာ–၄၆၊ ၅၁)။

သို့လည်းကောင်း၊ ရေ၌ပေါက်သော ပဒုမ္မာကြာသည် ထိုရေနှင့် လိမ်းကျံငြိတွယ်ခြင်းမရှိသကဲ့သို့လည်းကောင်း ထိုနည်းတူစွာ အပေါင်းအဖော်၌ အငြိအတွယ်မရှိဘဲ သူတစ်ပါးတို့၏ကဲ့ရဲ့သံ, ချီးမွမ်းသံတို့ဖြင့် တုန်လှုပ်ခြင်းမရှိဘဲ ကြံ့ချီနှင့်တူစွာ ကိုယ်ပိုင်အစွမ်းကိုအားကိုး၍ တစ်ကိုယ်တည်းကျင့်ကြံကြိုးစားရာ၏'-ဟူ၍ဖြစ်သည်။

ဤဂါထာသင်ယူမှတ်သားရခြင်းကြောင့် သင် ကိုရင်ပဏ္ဍိတသည် 'မည်သည့်အခါမဆို ကောသရှိခြင်္သေ့မင်းနှင့်တူစွာ သူတစ်ပါးတို့၏ကဲ့ရဲ့သံ,ချီးမွမ်းသံများကြောင့် လှုပ်ရှားထိတ်လန့်ခြင်း မဖြစ်ပါစေလင့်။ လေနှင့်တူစွာ ငြိတွယ်မှုအမျိုးမျိုး,သွေးဆောင်မှုအမျိုးမျိုးတို့မှလွတ်ကင်းအောင် ရှောင်ရှားပါ။ ပဒုမ္မာကြာနှင့်တူစွာ ကမ္ဘာလောက၏မကောင်းသောစရိုက်အမှုအရာတို့နှင့် လိမ်းကျံလူးလဲခြင်း မရှိပါစေလင့်။ မိမိကိုယ်ပိုင်ဖြစ်သော စွမ်းအင်သတ္တိကိုအားထား၍ စင်ကြယ်သန့်ပြန့် ခန့်ခန့်ခိုင်ခိုင် မဏ္ဍိုင်မသွေနေတတ်ပါစေ'-ဟူသော ရည်ရွယ်ရင်းဆန္ဒများဖြင့် ကျေးဇူးရှင် လယ်တီဆရာတော်ကြီး ဆုံးမညွှန်ကြားတော်မူခဲ့ပါသည်။*[၁]

သက္ကရာဇ် ၁၂၆၀-ပြည့်နှစ်၊ တန်ခူးလပြည့်ကျော် ၁၄-ရက် (အေဒီ-၁၉၊ ဧပြီလ၊ ၁၈၉၈) တွင် လယ်တီဆရာတော်ကြီးက နေ့ည၌အချိန်နာရီများကို အကျိုးရှိအောင်အသုံးပြုသင့်ကြောင်းကို ရည်ရွယ်၍ ရှင်ပဏ္ဍိတအား ခုဒ္ဒကနိကာယ်ဝင်၊ ထေရဂါထာပါဠိတော်လာ အောက်ပါ သိရိမဏ္ဍတ္ထေရဂါထာ (ထေရ။ ဂါထာ-၄၅၁။)ကို ကျက်မှတ်ရန် ရွေးချယ်ပေးတော်မူပါသည်။

> အမောဃံ ဒိဝသံ ကယိရာ၊
> အပ္ပေန ဗဟုကေန ဝါ။
> ယံ ယံ ဝိဇဟတေ ရတ္တိံ၊
> တဒူနံ တဿ ဇီဝိတံ။

အထက်ပါဂါထာ၏ဆိုလိုရင်းအဓိပ္ပာယ်မှာ-

'နေ့ည၌အချိန်နာရီများကို အနည်းငယ်ကလေးဖြစ်စေ၊ အများပင်ဖြစ်စေ အကျိုးမဲ့ မဖြုန်းတီး, အကျိုးရှိရှိ အသုံးပြုရာသည်။ အကြင်အကြင်နေ့ည၌အချိန်နာရီများကို အကျိုးမဲ့စွန့်လွှတ်လိုက်ပါက ထိုသူမှာ အချိန်နာရီတို့ ဆုံးရှုံးလေသည်။ ထိုအချိန်နာရီနှင့်အတူ အသက်သည်လည်း ဆုံးရှုံးလေတော့သည်'-ဟုဖြစ်သည်။

အထက်ပါ 'အမောဃံ'အစရှိသော ဂါထာကိုအကြောင်းပြု၍ အချိန်ကို လောက,သံသရာ (တစ်နည်း) လောကီ,လောကုတ္တရာ နှစ်ဖြာသောဌာနတို့တွင် အကျိုးရှိအောင် စနစ်တကျ သုံးစွဲဖို့လိုကြောင်း လယ်တီဆရာတော်ကြီးက အကျယ်တဝင့်ရှင်းပြတော်မူရာ၊ ထိုဩဝါဒနာယူရသော ကိုရင်ပဏ္ဍိတက နောင်သောအခါ ဤဂါထာနှင့်စပ်၍ အောက်ပါအတိုင်း မှတ်သားထားခဲ့သည်။

---

*[၁] လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ တိပိဋကနီတိ။ လယ်တီတရားသတင်းစာ၊ အတွဲ-၁၊ နံပါတ်-၄။ ၁၂၈၈-ခုနှစ်။ သီတင်းကျွတ်လ။ (စာမျက်နှာ-၃၅၊ ၄၁)။

သက္ကရာဇ် '၁၂၆၀–ပြည့်၊ တန်ခူးလပြည့်ကျော် ၁၄–ရက်နေ့တွင် ကျေးဇူးရှင်လယ်တီ ဆရာတော်ကြီးက ထေရဂါထာပါဠိတော်လာ နီတိဂါထာဖြင့် ဆုံးမတော်မူခြင်း၏ လိုရင်းရည်ရွယ်ချက်မှာ–ထိုအခါ အကျွန်ုပ်(လယ်တီပဏ္ဍိတ)သည် သာမဏေအဖြစ်နှင့် ပရိယတ်တရားများကို ကြိုးစားအားထုတ် သင်ကြားဆည်းပူးနေစဉ်အခိုက်အားလျော်စွာ အချိန်နှင့်ဝီရိယကိုညီမျှစေလျက် အချိန်မဖြုန်းစေဘဲ အကျိုးရှိအောင် အဖိုးတန်အောင် အသုံးပြုသွားပြီးလျှင် မကြာမီအတွင်း စာပေပရိယတ် တတ်မြောက်ခြင်းသို့ရောက်အောင် ရည်ရွယ်တော်မူသောဆန္ဒတော်များကြောင့် ဤဂါထာကို ပေးသနား၍ ညွှန်ကြားဆုံးမတော်မူခြင်းဖြစ်ပေသတည်း၊ သြော်–ကျေးဇူးတော်ကြီးမြတ်လှပေစွ'–ဟုဖြစ်သည်။

ဤသို့ပင် နေ့စဉ်မပျက် တစ်နေ့ကို ပါဠိတစ်ဂါထာကျ မနက်လင်းသည်နှင့် လယ်တီဆရာတော်ကြီးကရွေးပေး၍ ကိုရင်ပဏ္ဍိတကကျက်၊ ကိုရင်ပဏ္ဍိတကျက်၍ရလျှင် ညဘုရားဝတ်တက်အပြီး စာဝါတစ်ခုလိုသဘောထားကာ ဆရာတော်ကြီးက အဆိုပါဂါထာကို ဝတ္ထုသက်သေများနှင့်တကွ အကျယ်တဝင့်ရှင်းလင်းဟောကြားကာ ဘဝနေနည်းအဖြစ် နည်းပေးညွှန်ကြား ပြသတော်မူခဲ့ပါသည်။*၁

ဤသို့ တစ်နေ့တစ်ဂါထာကျ ရှင်ပဏ္ဍိတကိုကျက်စေသော အခြားအကြောင်းတစ်ခုမှာလည်း တစ်နေ့ ပါဠိတစ်ဂါထာမှန်မှန်ကျက်ခဲ့လျှင် တစ်နှစ်တာကာလအတွင်း ရက်ပေါင်း–၃၆၀ တွင် ဂါထာပေါင်း ၃၆၀ တို့ကို နှုတ်ငုံဆောင်မိမည်၊ ထိုအခါ ဆိုင်ရာစကားပြောရာ၌ဖြစ်စေ၊ စာပေရေးသားရာ၌ဖြစ်စေ သူ့နေရာနှင့်သူ နေရာတကျ ကောက်ကာငင်ကာ လွယ်လင့်တကူထုတ်ဆောင်ကိုးကား ပြောဆိုရေးသားနိုင်လိမ့်မည်–ဟူသောရည်ရွယ်ချက်ဖြစ်သည်။*၂ မည်သို့ဆိုစေ ပါဠိဂါထာ တစ်နေ့တစ်ဂါထာ ကျက်မှတ်ခွင့်ရသော ရှင်ပဏ္ဍိတအဖို့မှာကား တစ်နေ့လျှင် ရွှေအိုးကြီးတစ်လုံးကျရနေသလိုဖြစ်ခဲ့သည်မှာ ကေန်ဖြစ်ချေသည်။

**အရှင်ဉာဏောဘာသ*၃ ရောက်ရှိခြင်း**

ဤနှစ် (၁၂၅၉–ခုနှစ်)အတွင်း မြင်းခြံခရိုင် ကျောက်ပန်းတောင်းမြို့နယ် တည်ပင်တဲရွာဇာတိ သက္ကရာဇ် ၁၂၃၄–ခုနှစ်၊ သီတင်းကျွတ်လဆန်း ၁၃–ရက် (အေဒီ–၁၅၊ အောက်တိုဘာလ

*၁ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးသည် မိမိငယ်စဉ်ကိုရင်ဘဝက လယ်တီဆရာတော်ကြီး နေ့စဉ်တစ်ဂါထာ ကျက်မှတ်စေ၍ အကျယ်ဩဝါဒပေးသည်တို့ကို အမှတ်အသားပြုပြီး၊ နောင် လယ်တီတရားသတင်းစာထုတ်ဝေသည့်အခါ (အေဒီ ၁၉၃၈–ခုနှစ်၊ ပြေ) တွင် လယ်တီတရားသတင်းစာ၌ တစ်လလျှင် တစ်ဂါထာကျ တိပိဋကနီတိအမည်တပ်လျက် လစဉ်ဆောင်းပါးအဖြစ် ရေးသားခဲ့ပါသည်။

*၂ လယ်တီဦးလှပိုင်၏ လယ်တိဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၃၉၂)။

*၃ ဤရှင်ဉာဏောဘာသသည် နောင်အခါ လယ်တီဆရာတော်ကြီး၏ အရိုက်အရာကိုဆက်ခံမည့် ဒုတိယလယ်တီဆရာတော်အဖြစ်ထင်ရှားခဲ့သော ပုဂ္ဂိုလ်ကျော်တစ်ဦးဖြစ်သည်။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ ၃၃၅–၃၄၁)။

၁၈၇၂-ခုနှစ်)ဖွား၊ သန်လျင်မြို့၊ ဓာတ်တော်ကုန်းကျောင်း (ယခု-မင်းကျောင်း)တိုက်တည် ပဌမဆရာတော် ဦးစန္ဒောဘာသ၏ ညီ၊[၁] အရှင်ဉာဏောဘာသသည် ရဟန်း ၅-ဝါအရတွင် မုံရွာမြို့ လယ်တီဆရာတော်ကြီး၏ခြေတော်ရင်းသို့ နောင်တော်ရင်းဖြစ်သူ ဦးဝိစာရမ္ဘ ကိုယ်တိုင် လိုက်ပါ၍ အပ်နှံခဲ့လေသည်။ ထိုအရှင်ဉာဏောဘာသသည် လက်တီဆရာတော်ကြီးထံမရောက်မီ ရန်ကုန်မြို့ ပုဇွန်တောင် နော်မံကျောင်းကြီးဆရာတော်ဦးပညာထံတွင်လည်း တပည့်ခံခဲ့ဖူးသည်။ နော်မံကျောင်းကြီးဆရာတော်ဦးပညာသည် လယ်တီဆရာတော်ကြီးနှင့် သက်တော်ဝါတော် တူရုံမျှမက မန္တလေးမြို့ စံကျောင်းတိုက်မှာလည်း စာသင်ဖက်အလွန်ရင်းနှီးသော ချင်းတွင်း တစ်နယ်တည်းသား ဒဠှမိတ္တကြီးဖြစ်ပါသည်။

အရှင်ဉာဏော်ဘာသ ရန်ကုန်မြို့ အမဲဈေး(ယခု-မင်္ဂလာတောင်ညွန့်) နော်မံကျောင်းတိုက်ကြီးမှ မုံရွာမြို့ လယ်တီတိုက်သို့ရောက်ရခြင်း၏အကြောင်းမှာ အခြားမဟုတ်၊ အရှင်တိလောက၏ တိုက်တွန်းချက်အရ ရန်ကုန်မြို့ နော်မံကျောင်းမှ မုံရွာမြို့ လယ်တီတိုက်သို့ ရွှေ့ပြောင်းလာခြင်းဖြစ်သည်။ ဦးတိလောကသည် ကိုရင်ပဏ္ဍိတ မုံရွာမြို့ လယ်တီတိုက်သို့ရောက်ကာစတွင် ဝိပဿနာဘာဝနာအားထုတ်ရန် ချင်းတွင်းမြစ်ညာသို့ ကြွတော်မူခဲ့သော်လည်း ထိုအရပ်၌ တောတောင်စိမ့်စမ်းပေါ၍ ငှက်ဖျားထူပြောသဖြင့် တရားမကျင့်နိုင်ဘဲရှိနေခဲ့သည်။ သို့ဖြစ်၍ ချင်းတွင်းရောဝတီကြောအတိုင်း အောက်ပြည်အောက်ရွာသို့ စုန်တော်မူခဲ့ပြီး ရန်ကုန်မြို့ ပုဇွန်တောင်ရပ်ရှိ နော်မံကျောင်းကြီးတိုက်၌ ခေတ္တသီတင်းသုံးကာ စာဝါများပို့ချပေးခဲ့လေသည်။[၃] ဤတွင် အရှင်တိလာကသည် အရှင်ဉာဏောဘာသနှင့် နော်မံကျောင်းကြီးတိုက်၌ဆုံဆည်းရပြီး ထိုအရှင်၏စာပေ ထူးချွန်မှုကိုသိမြင်သည့်အတွက် မိမိသည်လည်း တစ်နေ့သောအခါ မုံရွာမြို့ လယ်တီတိုက်သို့ ပြန်ရောက်လိမ့်မည်ဟု ယူဆရင်းရှိသည့်အတိုင်း မိမိမရောက်မီ အရှင်ဉာဏောဘာသကို မုံရွာမြို့ လယ်တီတိုက်သို့ ဦးစွာသွားရောက်နေထိုင်ရန် စေလွှတ်လိုက်ခြင်းပင်ဖြစ်သည်။

## တေဇောသုတ်သတိမဝါဆိုတော်မူခြင်း

ကျေးဇူးရှင်လယ်တီဆရာတော်ကြီးသည် သက္ကရာဇ်-၁၂၆ဝ-ပြည့်နှစ်၊ ဝါဆိုလ (အေဒီ ၁၈၉၈-ခုနှစ်၊ ဇွန်/ဇူလိုင်)တွင် မုံရွာမြို့ မဟာလယ်တီတောရကျောင်းတိုက်မှာပင် (၃၃)ကြိမ်မြောက် တေဇောသုတ်သတိမဝါကို ကပ်ဆိုတော်မူခဲ့ပါသည်။

---

[၁] ဦးဉာဏောဘာသသည် နောင်တော်ဦးစန္ဒောဘာသနှင့်အတူနေစဉ် ပထမပြန်စာမေးပွဲတွင် အကြီးတန်းဝင်၍ဖြေရာ အောင်မြင်၍ ဆာဘိုးသာက ရဟန်း၁ကာခံခဲ့သည်။ မင်းကျောင်းပထမပြန်စာသင်တိုက်၏ ငွေရတုသဘင်စာစောင်။ (စာမျက်နှာ-၃၅)။

[၂] ဤဆရာတော်ကြီးဦးပညာကို အင်းစိန်မြို့၌ တောရဆောက်တည်ဖူး၍ အင်းစိန်ဆရာတော်ကြီးဟုလည်းခေါ်သည်။ အရှင်ပဏ္ဍိတ၏ နော်မံကျောင်းကြီးတိုက်သမိုင်းနှင့် ဆရာတော်ကြီးများအတ္ထုပ္ပတ္တိ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၈၈-ခုနှစ်။ (စာမျက်နှာ-၃၇၊ ၃၉)။

[၃] တင်မြင့်၏ ဗန်ကျိုကိုလုမ်းပါလို့ ပခန်းကိုဝင်ခဲ့တယ်။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၁၉၉၃-ခုနှစ်။ (စာမျက်နှာ-၁၈)။

## ရှင်ကိတ္တိ[*၁] ရောက်ရှိခြင်း

သက္ကရာဇ် ၁၂၆၀-ပြည့်နှစ် ဝါကျွတ်ကာလ (အေဒီ ၁၈၉၈-ခုနှစ်၊ စက်တင်ဘာလ)တွင် ကိုရင်ပဏ္ဍိတနှင့်ရွယ်တူ အလုံးအရပ် အသားအရည်လည်း ခပ်ဆင်ဆင် သက်နီးနှင့်အလွန် လိုက်ဖက်သော အရှင်ကိတ္တိဘွဲ့အမည်ရှိ ရဟန်းဖြစ်စသံဃာတစ်ပါးသည် ကျိုက်ထိုမြို့မှနေ၍ မုံရွာမြို့ လယ်တီဆရာတော်ကြီး၏ခြေတော်ရင်းသို့ ဦးတိလောက၏စာလွှာတစ်စောင်နှင့်အတူ ရောက်ရှိလာလေသည်။ ထိုအရှင်ကိတ္တိသည် ကိုရင်ပဏ္ဍိတနယ် စာပေအရာ၌ထူးချွန်ပြီး အပြော အဆို အဟောအပြောဘက်မှာလည်း လယ်တီဆရာတော်ကြီးသွန်သင်သလို ပြောဆိုဟောပြော နိုင်သောကြောင့် လယ်တီတိုက်သို့ရောက်ပြီးမကြာမီမှာပင် လယ်တီဆရာတော်ကြီး၏တရားပွဲတို့တွင် ရှေ့ထွက်ဓမ္မကထိကအဖြစ်သို့ ရောက်ရှိခဲ့ပါသည်။[*၂]

## ကျိုက်ထိုသို့ကြွတော်မူခြင်း

အရှင်ကိတ္တိနှင့်အတူပါလာသော ဦးတိလောက၏စာလွှာမှာ လယ်တီဆရာတော်ကြီးအား ကျိုက်ထိုမြို့သို့ပင့်လျှောက်သည့်စာလွှာဖြစ်သည်။ ပင့်ရသည့်အကြောင်းမှာ ဤသို့ဖြစ်သည်။

ရန်ကုန်မြို့ နော်မံကျောင်းကြီးတိုက်၌ခေတ္တသီတင်းသုံးနေသော ဦးတိလောကသည် မူလ ရည်ရွယ်ရင်းပဓာနကိစ္စဖြစ်သော ဝိပဿနာဘာဝနာအလုပ်အားထုတ်ရန်အတွက် အောက်ပြည် အောက်ရွာ ကျိုက်ထိုမြို့အရှေ့ သေကျွပဗ္ဗတ[*၃] ခေါ် သေကျွပင်များစွာပေါက်ရောက်ရာ သေကျွ တောင်တန်းသို့ရွှေ့ပြောင်းကာ သက်ကယ်မြက်မိုး ဇခြတံရှည်ဝါးကျောင်းကလေးတစ်ဆောင် ဆောက်၍ တောရဆောက်တည်နေထိုင်ခဲ့လေသည်။[*၄]

ထိုစဉ်က ဦးတိလောကသည် အရွယ်ကကောင်းတုန်း၊ ဖွဲလုံ့လထက်သန်နေတုန်းဖြစ်၍ ဘာဝနာအလုပ်ကို ပြင်းပြင်းထန်ထန်အားထုတ်ခဲ့သည်။ သည့်ဘဝ သည့်ခန္ဓာ, သည့်တစ်ခါ အပြတ်-ဟူသော ဖွဲစာတ်ကြီးမားစွာ မထ,တမ်း မအိပ်တမ်း ကျင့်ကြံခဲ့လေသည်။ ထို့ပြင် ဦးတိလောက၌ ကြီးမားသောရည်ရွယ်ချက်တစ်ခုမှာ ယခုအခါ ဗုဒ္ဓသာသနာသည် သူတစ်ပါး လက်အောက်ရောက်နေရ၍ ညှိုးမှိန်သေးသိမ်နေရသည်။ ထိုသို့ညှိုးမှိန်နေရသော ဗုဒ္ဓဘာသာကို

---

*၁ ဤရှင်ကိတ္တိသည် နောင်သောအခါ လယ်တီဆရာတော်ဘုရားကြီး၏ ညာလက်ရုံးတစ်ဆူဖြစ်ခဲ့ပြီး၊ သက္ကရာဇ်-၁၂၇၂ (အေဒီ-၁၉၁၀)နှစ်တွင် လူ့ဘောင်သို့သက်၍ ဆရာစိန်၊ နောင် အင်္ဂလိပ်အစိုးရ၏ တိုင်းကျိုးပြည်ကျိုးဆောင်တံဆိပ် (TPS)ကိုရ၍ တီပီအက်စ်ဆရာစိန် (အေဒီ-၃၊၁၀၊၁၈၇၈-၂၇၊ ၃၊ ၁၉၅၀)ဟူသောအမည်ဖြင့် ထင်ရှားခဲ့သည်။ လယ်တီ ဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ ၃၇၆-၃၈၄)။

*၂ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ-၃၇၇)။

*၃ ဆရာတော်ဦးတိလောကက 'သေကျွ'ကို သေကျွ(တစ်နည်း) သစ်ချပင်ဟု အဓိပ္ပာယ်မကောက်ဘဲ၊ မြတ်စွာဘုရားရှင် ဟောကြားအပ်သော အဓိသီလ, အဓိစိတ္တ, အဓိပညာ-ဟူသော သိက္ခာသုံးပါးကိုဖြည့်ကျင့်ဆဲဖြစ်သည့် 'သေက္ခ'ဟု ခေါ်အပ်သောပုဂ္ဂိုလ်တို့ သီတင်းသုံးနေထိုင်ကာ တရားအားထုတ်ရာဖြစ်သော သေကျွတောင်အမည်ရှိပေသည်' ဟု အဓိပ္ပာယ်ဖွင့်ယူခဲ့ပေသည်။ ဦးတိလောက၏ အဘိဓမ္မတ္ထသင်္ဂဟဒီပနီ။ ဗုဒ္ဓသာသနအဖွဲ့၊ ရန်ကုန်မြို့။ ၁၉၆၉-ခုနှစ်။

*၄ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ-၃၂၁)။

သူတစ်ပါးတို့အထင်မသေးစေချင်။ သို့ပါ၍ ရှာန်ရအောင်တရားအားထုတ်၍ စတုတ္ထဈာန်ကို အခြေပြုပြီး စိတ်ဝင်တစားနှင့် အဘိညာဉ်တန်ခိုးပြကာ သတ္တဝါတို့ကိုဟောချွတ်ရပါလျှင် ကျွတ်တမ်းဝင်သူများနိုင်သကဲ့သို့ ဗုဒ္ဓဘာသာသာသနာသည်လည်း ထိပ်တန်းရောက်လာလိမ့်မည်ဟု ဦးတိလောကဌ မျှော်လင့်ချက်ရှိလေသည်။*[၁]

သေကျွတောင်၌ဂူငယ်တစ်ခုရှိရာ ဦးတိလောကသည် ထိုဂူတွင်းသို့ဝင်မိလျှင် မထွက်တော့ဘဲ ဆွမ်းကပ်လာသူတို့ပင် လက်မှိုင်ချပြန်သွားသည့်တိုင် ဆွမ်းအာဟာရကိုဖြတ်၍ မတ်တတ်က လဲလုမတတ် တရားကိုသာမဲ၍အားထုတ်ခဲ့သည်။ ထို့ပြင် 'ငါသည် ရှာန်ရမှသာ ဤအုတ်ဂူထဲက ရှာန်တန်ခိုးဖြင့်ထွက်အံ့'ဟူ၍လည်း ကြုံးဝါးတော်မူလေသေးသည်။*[၂] ထိုစဉ်က ဦးတိလောကသည် လယ်တီဆရာတော်ကြီးရှုပွားသော ဩဒါတကသိုဏ်းကမ္မဋ္ဌာန်းကို ရှုပွားနေစဉ်အခါဖြစ်သည်။ ဦးတိလောကနှင့်အတူနေထိုင်ခဲ့ဖူးသော အရှင်အာစိဏ္ဏ*[၃] ကမူ 'ဦးတိလောက၏အခန်းသည် တစ်ညလုံးလင်းလျက် နံနက် ၄–နာရီထိုးကာမှငြိမ်းသွားသည်။ ဤတွင် 'မီးဖြင့်မလင်း၊ ကမ္မဋ္ဌာန်းလင်း၊ ဖွဲ့ပြင်းခေါင်မျှ တိလောက'ဟူ၍ပင် စာစပ်ဆိုနိုင်ကြောင်းမိန့်ကြားဖူးသည်။*[၄]

ဦးတိလောကသည် ကမ္မဋ္ဌာန်းအလုပ်၌အားထုတ်၍ ရက်လအတော်ကြာလာခဲ့သော်လည်း တရားသားမတက်ဘဲဖြစ်နေရာ အကယ်သာ ဤအချိန်မျိုးတွင် မိမိကျေးဇူးရှင်လယ်တီဆရာတော်ကြီးထံမှ အားထုတ်ပုံအားထုတ်နည်းတို့ကိုနည်းခံရခဲ့လျှင် မိမိဆန္ဒပြည့်စုံရာသည်ဟု မှတ်ယူနှလုံးသွင်းမိခြင်းကြောင့် မုံရွာမြို့ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးထံတော်သို့ ကျိုက်ထိုမြို့သို့ကြွတော်မူပါမည့်အကြောင်း ပင့်လျှောက်ခဲ့ခြင်းဖြစ်သည်။ ထိုစဉ်ကဆက်ကပ်ခဲ့သော ပင့်လျှောက်လွှာတွင် 'တပည့်တော် ခုနေအခါမှာ သပ္ပုရိသအမှီသဟဲရခဲ့ပါလျှင် ရဟန်းကိစ္စ ချောမောပါတော့မည်'ဟူ၍ ရဲဝံ့စွာထည့်သွင်းလျှောက်ထားခဲ့လေသည်။

လယ်တီဆရာတော်ကြီးသည် ဦးတိလောက၏ပင့်လျှောက်စာကိုရလျှင်ရချင်းပင် ဘာကိုမဆို လွှမ်းလွှမ်းချွန်ချွန်ပြုတတ်သော တပည့်ကြီးဦးတိလောကအားချီးမြှောက်အားပေးရန်နှင့် ထိုကျိုက်ထိုမြို့အနီးရှိ ကျိုက်ထီးရိုးဆံတော်ရှင်၊ ကုသိနာရုံဆံတော်ရှင်တို့အားဖူးမြင်ရန်ဟူသော နှစ်ကိစ္စတို့ဖြင့် နောက်ပါပစ္စာသာမဏအဖြစ် ခိုးသန်းဇာတိအရှင်ပဏ္ဍိတနှင့် လက်စွဲကိုရင်ကြီးရှင်ပဏ္ဍိတတို့ကို လိုက်ပါစေပြီး သက္ကရာဇ် ၁၂၆၀–ပြည့်၊ တန်ဆောင်မုန်းလ(အေဒီ ၁၈၉၉–ခုနှစ်၊ နိုဝင်ဘာလ)တွင် ကျိုက်ထို မြို့သို့ကြွတော်မူခဲ့ပါသည်။*[၅]

---

*[၁] ဦးစိန်နီ၏ မဟာထေရာစိဏ္ဏဇာတ်တော်။ (စာမျက်နှာ–၅၂)။

*[၂] လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၂၃)။

*[၃] ဤအရှင်အာစိဏ္ဏသည် နောင်သောအခါ ရန်ကုန်မြို့ ခြောက်ထပ်ကြီးဗုဒ္ဓါရာမဘုရားကြီးတိုက်ဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်အာစိဏ္ဏ ဖြစ်တော်မူပါသည်။

*[၄] ဦးစိန်နီ၏ မဟာထေရာစိဏ္ဏဇာတ်တော်။ (စာမျက်နှာ–၅၃)။

*[၅] ဦးတိလောက၏ အရိယာမဂ္ဂဒီပနီကျမ်း။ ကြင်ကြင်ပိဋကတ်ဖြန့်ချီရေး၊ ရန်ကုန်မြို့။ (စာမျက်နှာ–၂)။ လယ်တီဦးလှတင် (ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၄၁)။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၂၄)။



မွန်ပြည်နယ်၊ဘီးလင်းမြို့ ကုသိနာရုံဆံတော်ရှင်စေတီတော်



ဘီးလင်းမြို့
ကုသိနာရုံဆံတော်ရှင်
စေတီတော်အနီး၌
လယ်တီဆရာတော်ကြီး၊
သီတင်းသုံးတော်မူခဲ့ရာ
ကျောက်ဂူဝကျောင်း၊





လယ်တီဆရာတော်ကြီး သီတင်းသုံးတော်မူရာကျောက်ဂူဝနှင့်ယခုပြုပြင်ထားသောပုံ

သေက္ချတောင်၌သီတင်းသုံးစဉ်

လယ်တီဆရာတော်ကြီးသည် သေက္ချတောင်သို့ တန်ဆောင်မုန်းလပြည့်ကျော် ၈–ရက်၊ ၉–ရက် (အေဒီ ၁၈၉၈–ခုနှစ်၊ နိုဝင်ဘာလ ၅,၆–ရက်)တွင်ရောက်ရှိတော်မူပါသည်။ ရောက်သည်နှင့်တစ်ပြိုင်နက် အချိန်အလဟဿမဖြစ်စေရန် ဦးတိလောကအားတရားစစ်ဆေးရာ အားထုတ်စဉ်လပ်းမှန်သော်လည်း ဦးတိလောကသည် 'ရုပ်နာမ်ပိုင်းခြားတရားတို့ကို ငါသည်ကေန်ပင်ရနိုင်သည်' ဟူသော မျှော်လင့်ချက်လွန်ကဲကြီးမားခြင်း အဓိမာနကြောင့် တရားမတက်ဘဲရှိနေသည်ကို တွေ့ရှိတော်မူလေသည်။ ဦးတိလောကအလိုရှိသော အားထုတ်စဉ်တို့ကိုလည်း ပြသပေးတော်မူပါသည်။

ဆရာတော်ကြီးသည် ဦးတိလောကနှင့်အတူ တရားအားထုတ်လျက် ဤသေက္ချတောင်တွင် တစ်လခန့် သီတင်းသုံးနေတော်မူခဲ့ပါသည်။*၁ ဤသို့သီတင်းသုံးနေစဉ်အတွင်း တစ်ညနေတွင် ကပ္ပိယမောင်စမုံဆိုသူသည် ဖျော်ရည်ကပ်ရန် လယ်တီဆရာတော်ကြီးသီတင်းသုံးနေတော်မူသော ဝါးကျောင်းကလေးအနီးချဉ်းကပ်အသွား ကျောင်းသို့မဝင်မီ ပြင်ပမှလှမ်း၍ ကျောင်းအတွင်းသို့ကြည့်လိုက်ရာ ကပ္ပိယမောင်စမုံ၏ခြေလှမ်းများ အလိုလိုရပ်တန့်၍ အတန်ကြာအောင် တွေဝေငေးမောသွားခဲ့သည်။ သတိရလျှင် ချက်ချင်းနောက်ကြောင်းပြန်လှည့်ကာ ဦးတိလောကထံသွားရောက်၍ လယ်တီဆရာတော်ကြီး၏ဖြစ်ထွေကို လျှောက်ထားခဲ့သည်။

ဦးတိလောကလည်း တပည့်ဦးနန္ဒမာလာ၊ ဦးဝိသုဒ္ဓ၊ ဦးဇဝန၊ ဦးသောဘဏ၊ ဦးပဏ္ဍိတနှင့် ရှင်ပဏ္ဍိတ–စသူတို့ကိုခေါ်၍ ဆရာတော်ကြီး၏ကျောင်းအနီး ချဉ်းကပ်လာကြရာတွင် ဆရာတော်ကြီးသည် ကျောင်းသခ်မ်းအတွင်း မျက်လွှာချတင်ပလ္လင်ခွေလျက် ကြမ်းမှအထက်သို့ နှစ်တောင်ခန့်အမြင့်တွင်တက်ကြွကာ တရားရှုမှတ်နေသည်ကို အဝေးကပင်မြင်တွေ့ကြရသည်။ ဦးတိလောကက တပည့်အပေါင်းတို့အား 'တပည့်တို့၊ ဆရာတော်ကြီးသက်တော်ထင်ရှားရှိတော်မူသရွေ့ ဤအကြောင်းကို မည်သူတစ်ဦးတစ်လေကိုမျှပြောမပြရ' ဟု ကြပ်တည်းစွာနှုတ်ပိတ်ထားခဲ့သည်။*၂

ဂန္ဓာရီရသေ့များနှင့်တွေ့ဆုံခြင်း

လယ်တီဆရာတော်ကြီးသည် နောက်ပါသံဃာများနှင့် နတ်တော်လဆန်း ၄–ရက်၊ ၅–ရက်(အေဒီ ၁၈၉၈–ခုနှစ်၊ နိုဝင်ဘာလ ၁၆၊ ၁၇–ရက်)တွင် ဘီးလင်းမြို့ ကုသိနာရုံဆံတော်ရှင်ဘုရားသို့အဖူးမြော်ရောက်တော်မူခဲ့သည်။ ထိုဘုရားအနီး၌ ရှေးအခါကပင် သူတော်စင်ရသေ့ယောဂီတို့ တရားအားထုတ်ရာကျောက်ဂူများရှိရာ လယ်တီဆရာတော်ကြီးသည် ရှေးရှေးက နဂါးတို့နေရာ

---

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၂၄)။ အချို့စာ၌ 'လယ်တီဆရာတော်ကြီး သေက္ချတောင်တွင် နှစ်လသီတင်းသုံးကြောင်း' ဖော်ပြထားသည်။ မြွာစရိယဦးဌေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၃၀၆)။

*၂ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၂၅)။ မြွာစရိယဦးဌေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၃၀၇)။

နဂါးလမ်းခေါ် ဂူအတွင်း၌ ခေတ္တသီတင်းသုံးနေခဲ့ပါသည်။[*၁] ထိုသို့သီတင်းသုံးနေစဉ် ဘီးလင်းတောင်ရိုး၌မွေ့လျော်နေသော ရသေ့ဆရာများက ဆရာတော်ထံသို့လာရောက်ပြီး တွေ့ဆုံခဲ့ကြသည်။ ထိုသို့တွေ့ဆုံကြသည့်အခါ ရသေ့ဆရာများက ဝိဇ္ဇာ၏အထူးအပြားအကြောင်းမြင်းရာနှင့် သက္ကာယဒိဋ္ဌိဟုဆိုအပ်သော အတ္တဝါဒပါဒါန်ကို ဖြိုဖျက်ရာသောနည်းလမ်းတို့ကို မေးလျှောက်ကြသည်။ ထိုအခါ လယ်တီဆရာတော်ကြီးက သက္ကာယဒိဋ္ဌိဟုဆိုအပ်သော အတ္တဝါဒုပါဒါန်ကိုဖြိုဖျက်ရန်အတွက် ဝိပဿနာဝိဇ္ဇာလမ်းကိုလိုက်ကြရန် အကျဉ်းချုပ်ဟောပြောတော်မူခဲ့ပါသည်။[*၂]

သို့ဟောပြောရာတွင် လယ်တီဆရာတော်ကြီးက အထက်အောက်မြန်မာနိုင်ငံတစ်ဝန်းတောတောင်အရပ်များသို့ချဉ်းကပ် တရားအားထုတ်နေကြသော ယောဂီအပေါင်းတို့တွင် သီလစတင်ပဋိပတ်တို့ကိုတည်ဆောက်ပြီး ဝိပဿနာလမ်းကိုပြနိုင်သောဆရာကို ကောင်းစွာခ,စားလျက် ဝိပဿနာနည်းလမ်းကို လက်ထပ်ရအောင်သင်ယူ၍၊ ဆိတ်ငြိမ်ရာအရပ်၌ ဝိပဿနာလုပ်ငန်းကို ကြပ်ကြပ်တည်းတည်းအားထုတ်သူတို့သာလျှင် မိမိကိုယ်ခန္ဓာအတွင်းရှိ ရုပ်အသိုက်အအုံ, နာမ်အသိုက်အအုံ, ရုပ်တို့၏အဖြစ်အပျက်, နာမ်တို့၏အဖြစ်အပျက်တို့ကို လင်းလင်းထင်ထင် သိမြင်ခွင့်ရကြသူများ ခေါ်ဆိုနိုင်ကြောင်း–ဟောပြောတော်မူပါသည်။[*၃] တစ်နည်းအားဖြင့် ငါ–ဟူသော ကိုယ်ကောင်သတ္တဝါ အမာအနှစ်ပပျောက်ရေးသည် သက္ကာယဒိဋ္ဌိခေါ် အတ္တဝါဒုပါဒါန်ဖြိုဖျက်ရာနည်းတို့တွင် ဓာတ်ကြီးလေးပါး, ဓာတ်ကြည်ခြောက်ပါး, ဝိညာဏဓာတ်ခြောက်ပါး, ဤဓာတ်စုတို့ကို ပေါက်မြောက်အောင်ကြည့်ခြင်းဟူသော ဝိပဿနာဘာဝနာနည်းလမ်းမှတစ်ပါး အခြားနည်းလမ်းမရှိ၊ ဤလမ်းစဉ်အတိုင်းလိုက်ပါက ထိုဓာတ်တို့၏အနိစ္စလက္ခဏာ,ဒုက္ခလက္ခဏာကိုမြင်လျှင် ငါ၏ဥစ္စာ,ငါ၏ဟာဟူသော အတ္တနိယပျောက်၍ အရိယာဝိဇ္ဇာလမ်းဆုံးကမ်းတိုင်ရောက် ထ,မြောက်ပြီးစီးလေတော့သည်။ ထိုအခါ ယောဂီအဖြစ်မှလွတ်၍ တေဝိဇ္ဇာအဖြစ်သို့ရောက်လေရာ၏-ဟူ၍ ဟောပြောတော်မူခဲ့ပါသည်။[*၄]

ဆရာတော်ကြီး၏တရားစကားကို နာကြားကြရသော ရသေ့ဆရာတို့က ဓာတ်ကြီးလေးပါး၊ ခန္ဓာငါးပါးကို တစ်စစိခွဲ၍ရှုရသည့် ဝိပဿနာဟူသောစကားတို့ကြောင့် ဝိပဿနာခေတ်မဟုတ်သည့်အလျောက် နားစိမ်းနေကြ၏။ ဤတရားတို့ကို စာအားဖြင့်ရေးသားချီးမြှင့်ပေးတော်မူက မကြာခဏဖတ်ရှုရလျက် လက်တွေ့အားထုတ်ရာ၌ လမ်းစဉ်သဖွယ်ဖြစ်ပါလိမ့်မည်။ သို့ပါ၍ ဤတရားတို့ကို စာဖြင့်ရေးသားချီးမြှောက်တော်မူပါရန် ပန်ကြားကြလေသည်။ သို့ပန်ကြားကြ

---

*၁ ယခု ထိုလယ်တီဆရာတော်ကြီးသီတင်းသုံးတော်မူခဲ့ရာ နဂါးတွင်းဂူကိုင့်၍ အုတ်တိုက်တစ်ခုဆောက်လုပ်ထားပါသည်၊ ထိုဂူသည် အတွင်းဘက်၌ လှိုဏ်စွာရှည်လျား၍ အချို့က ကျိုက်ထီးရိုးတောင်သို့ပင်ပေါက်ရောက်ကြောင်း ပြောကြသည်၊

*၂ ဦးတိလောက၏ အရိယာမဂ္ဂဒီပနီကျမ်း။ (စာမျက်နှာ–၂)။

*၃ ဦးတိလောက၏ အရိယာမဂ္ဂဒီပနီကျမ်း။ (စာမျက်နှာ–၂၃၂)။ လယ်တီဆရာတော်ကြီး၏ ဝိဇ္ဇာမဂ္ဂဒီပနီကျမ်း။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၂–ခုနှစ်။ (စာမျက်နှာ–၁၂)။

*၄ လယ်တီဆရာတော်ကြီး၏ ဝိဇ္ဇာမဂ္ဂဒီပနီကျမ်း။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၂–ခုနှစ်။ (စာမျက်နှာ–၈၂)၊

ရာတွင် ရသေ့များသာမက ကျိုက်ထို,ဘီးလင်းစသောအရပ်က ယောဂီသူတော်စင်တို့လည်း အပါအဝင်ဖြစ်သည်။

လယ်တီဆရာတော်ကြီးကလည်း 'သင်တို့အလိုရှိရာကို မုံရွာမြို့ လယ်တီတိုက်သို့ရောက်ခဲ့လျှင် စာဖြင့်ရေးသားပြီးပို့လိုက်မည်၊ ယခုအခါ ခရီးလမ်းဖြစ်နေ၍ စာရေးရန်အခွင့်မသာ'ဟု ဝန်ခံမိန့်ကြားတော်မူခဲ့ပါသည်။ လယ်တီဆရာတော်ကြီးသည် ဘီးလင်းမှမုံရွာသို့ ပြန်ကြွတော်မူပြီးနောက် မုံရွာမြို့ မဟာလယ်တီတိုက်သို့ရောက်သည်နှင့် ရသေ့ဆရာများအတွက် လက်တွေ့အားထုတ်စဉ် တရားတို့ကိုပုံနှိပ်မူဖြင့် စာမျက်နှာ–၁၀၀ ခန့်ရှိသော 'ဝိဇ္ဇာမဂ္ဂဒီပနီ'ကျမ်းကိုရေးသားပြီး ထိုနှစ် ပြာသိုလအတွင်းမှာပင် ဦးတိလောကမှတစ်ဆင့် ဘီးလင်းမြို့ ကုသိနာရုံရှိ ရသေ့များထံ ပေးပို့ခဲ့သည်။

ဦးတိလောကအရှင်သည် လယ်တီဆရာတော်ကြီးထံမှပေးပို့သော ဝိဇ္ဇာမဂ္ဂဒီပနီကျမ်း ရောက်ရှိလာသောအခါ ထိုကျမ်းကိုဖတ်ရှုပြီး ဤကျမ်းသည် မိမိကိုပါရည်ရွယ်ပြီးရေးသားထားကြောင်းသိရှိရကား လွန်စွာနှစ်သက်ခဲ့လေသည်။ ဦးတိလောကသည် လယ်တီဆရာတော်ကြီးအားပူဇော်သောအားဖြင့်လည်းကောင်း၊ ဤဝိဇ္ဇာမဂ္ဂဒီပနီကျမ်းကို နှစ်သက်သဘောကျသောအားဖြင့်လည်းကောင်း ထိုအခါက အရိယာမဂ္ဂဒီပနီမည်သော ကျမ်းတစ်စောင်ရေးသားပြီး ထိုကျမ်း၏ အလယ် ဝိဇ္ဇာမဂ္ဂအခန်း၌ ဆရာတော်ကြီး၏ဝိဇ္ဇာမဂ္ဂဒီပနီကို တစ်ကျမ်းလုံး ထည့်သွင်းထာပနာကာ ပုံနှိပ်ဖော်ပြခဲ့သည်။*၁

ကျိုက်ထီးရိုးဘုရားသို့

လယ်တီဆရာတော်ကြီးသည် သေက္ကျတောင်စခန်း၌ ကမ္မဋ္ဌာန်းတရားအားထုတ်ပြီးသည့်နောက် မိမိမူလရည်ရွယ်ရင်း ဖူးရခဲလှစွာသော ကျိုက်ထီးရိုးဆံတော်ရှင်ဘုရားကိုဖူးမြော်ရန် သေက္ကျတောင်မှ တောတောင်လျှိုမြောင်အထပ်ထပ်ကိုကျော်ဖြတ်ကာ ကျိုက်ထီးရိုးသို့ကြွသွားတော်မူပါလေသည်။

ဤသို့ကြွသွားစဉ် တောလမ်းတစ်နေရာတွင် ဆင်ကြီးတစ်ကောင်သည် ဆရာတော်ကြီး၏နောက်သို့ လိုက်၍လာ၏။ နောက်ပါတပည့်သံဃာတို့သည် ဆင်လိုက်လာသည်ကိုမြင်သည်နှင့် နီးရာသစ်ပင်တို့သို့ချဉ်းကပ်ပြီး သစ်ပင်ပေါ်ပြေးတက်ကြ၏။ သစ်ပင်ပေါ်ပြေးတက်ကြသောသံဃာတို့တွင် ဦးတိလောကလည်းအပါအဝင်ဖြစ်သည်၊ ဆရာတော်ကြီးကား မတုန်မလှုပ်သောသမာဓိဖြင့် ရှေ့သို့ဆက်၍ ကြွသွားနေ၏။ ဆင်ကြီးမှာ ဆရာတော်နားမရောက်မီမှာပင် အော်ဟစ်၍ အခြားတစ်ဖက်သို့ဦးလှည့်ကာ ထွက်ပြေးသွားလေသည်။

ဆင်ကြီးဝေးရာသို့ရောက်၍ သစ်ပင်ထက်မှ သံဃာများဆင်းသက်လာကြ၍ ဆရာတော်ကြီးအနီးသို့ ချဉ်းကပ်မိကြသောအခါ ဆရာတော်ကြီးက ရှေ့မှကြွသွားရင်း 'ဟော့–တောကျောင်းနေပြီး ရဟန်းကိစ္စချောလုပါပြီဆိုတဲ့လူက ဆင်လာတာ ကြောက်ရသေးသလားကွဲ့'ဟု မိန့်တော်

*၁ ဦးတိလောက၏ အရိယာမဂ္ဂဒီပနီကျမ်း။ (စာမျက်နှာ–၃၊ ၂၂၃)။

မှုလိုက်သောအခါ ဦးတိလောကမှာ သတိသံဝေများစွာရလျက် တရားအတွက်မာန်တက်မှု အဓိမာနများ လျော့ပါးသွားခဲ့လေသည်။ သို့ဖြစ်၍ ကျိုက်ထီးရိုးဘုရားအား လယ်တီဆရာတော်ကြီး ဖူးမြော်ပြီး သေက္ခတောင်သို့ပြန်ကြွသောအခါ၊ ဦးတိလောကသည် ထိုကျိုက်ထီးရိုးဘုရားအနီးရှိ လှိုဏ်မြောင်တစ်ခုတွင် တရားဘာဝနာအလုပ်ကိုအားထုတ်ရန် ကျန်နေရစ်ခဲ့လေသည်။*၁

ကျေးဇူးရှင်လယ်တီဆရာတော်ကြီးသည် သေက္ခတောင်တောရဌာနခေတ္တသီတင်းသုံးနေပြီး ထိုနှစ် တပို့တွဲလ (အေဒီ ၁၈၉၉–ခုနှစ်၊ ဇန်နဝါရီလ)မတိုင်မီ မုံရွာမြို့ လယ်တီတိုက်သို့ပြန်ကြွတော်မူခဲ့ပါသည်။

## ရှင်ပဏ္ဍိတရဟန်းခံပွဲ

လယ်တီဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၆၀–ပြည့်နှစ်၊ တပို့တွဲလဆန်း (အေဒီ ၁၈၉၉–ခုနှစ်၊ ဇန်နဝါရီလ)အမီ မုံရွာမြို့ လယ်တီတိုက်သို့ အရောက်ပြန်ကြွတော်မူခဲ့ရသည်မှာ ရဟန်းခံပွဲတစ်ခုကို စီစဉ်ရန်ရှိသောကြောင့်ဖြစ်သည်။ ရဟန်းလောင်းမှာ ဆရာတော်ကြီး၏လက်စွဲ ရှင်ပဏ္ဍိတဖြစ်သည်။

ထိုအခါက ရှင်ပဏ္ဍိတသည် စာတော်ခြင်း၊ ရုပ်ရည်တင့်တယ်ခြင်း၊ ဆရာတော်ကြီး၏ ချီးမြှောက်မှုကိုခံယူရခြင်း–စသည့်ဂုဏ်တို့ကြောင့် ရဟန်းခံလိုသူ ရဟန်းဒကာပေါ်များလျက်ရှိသည်။ ထို ရဟန်းဒကာပြုလိုသူတို့တွင် (၁) မုံရွာမြို့ ဘုရားကြီးလမ်း ပရိက္ခရာကုန်သည်ကြီး ဦးလူကြီး၊ ဒေါ်ရွှေအိမ်နှင့် သားသမီးများဖြစ်သော ဦးခန့်၊ ဒေါ်လေးတို့မိသားစု၊ (၂) ရှင်ပဏ္ဍိတ၏ဇာတိ ညောင်ဖြူရွာမှ သူငယ်ချင်းမောင်ဖျော်တို့မိသားစုနှင့် (၃) မုံရွာမြို့အရှေ့ လယ်ဖင်ရွာသူကြီး ဦးဆယ်နှင့် ဆွေမျိုးတစ်စုတို့အပါအဝင်ဖြစ်သည်။ ရဟန်းဒကာပြုလိုသူများသည် သူ့ထက်ငါ အလုအယက်ကန္တော့မရ ရဟန်းဒကာဖြစ်လိုကြောင်း ပြောဆိုကြ မညီမညွတ်ဖြစ်နေကြသောကြောင့် သက္ကရာဇ် ၁၂၆၀–ပြည့်နှစ်၊ တပေါင်းလပြည့်ကျော် ၈–ရက် (အေဒီ–၁၈၉၉၊ မတ်လ၊ ၃–ရက်)နေ့တွင် လယ်တီတိုက်အတွင်းရှိ ခဏ္ဍာသိမ်၌ လယ်တီဆရာတော်ကြီးက မိမိကိုယ်တိုင် သပိတ်သင်္ကန်း စိုက်ထုတ်ကာ ရှင်ပဏ္ဍိတအား ရဟန်းအဖြစ်သို့ပို့ဆောင်ပေးခဲ့ရလေသည်။*၂

## ကလေးဝမြို့သစ် သိမ်သမုတ်ပွဲ

လယ်တီဆရာတော်ကြီးနှင့်အတူ မဖွဲ့မဒေသသို့လိုက်ပါခဲ့သော လယ်တီတောရတိုက်အုပ် ဘုန်းကြီးအရှင်နေယျသည် မုံရွာမြို့ လယ်တီတိုက်သို့ပြန်ရောက်လျှင် ငယ်ဆရာဖြစ်သော ယော ၅ မြို့ဂိုဏ်းချုပ် ကန်နီမြို့မြောက်လက် ကင်းရွာ မဟာဗောဓိဆရာတော်ကြီး ဦးဝိသုဒ္ဓ၏ဆန္ဒအရ ရွေးအခေါ် ဗာန်းလက်မြို့ (ယခု–စစ်ကိုင်းတိုင်း၊ ကလေးခရိုင် ကလေးဝမြို့နယ် ဆင်ခေါင်း

---

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ ၁၂၅–၁၂၆)။ ဤဆင်ရိုင်းတို့သည် သူ့သဘာဝဆင်မဟုတ်ဘဲ လယ်တီဆရာတော်ကြီးက ဦးတိလောကအားဆုံးမလို၍ ဖန်တီးသောဆင်ရိုင်း–ဟူသော အယူအဆမျိုးရှိသည်။ မွှေးစရိယ ဦးဌေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၄၈၆)။

*၂ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၃၄၀)။

ကျေးရွာအုပ်စု မြို့သစ်ကျေးရွာ)တောကျောင်း၌ ကျောင်းထိုင်ခဲ့ရသည်။ ထိုကျောင်း၏ဒါယကာမှာ ဗာန်းလက်မြို့ သူကြီး မင်းလှသီရိရာဇဗိုလ် ဦးကြာရဲနှင့် သူကြီးကတော်ဒေါ်ငြိမ်းမြ၊ ဒေါ်သူဇာ တို့ဖြစ်သည်။

ကျောင်းဒကာဦးကြာရဲသည် လယ်တီဆရာတော်ကြီး မန္တလေးမြို့ စံကျောင်းတိုက်၌ နေစဉ်အခါက မင်းတုန်းမင်းကြီး၏ထီးတော်မိုးအမှုထမ်း ချင်းတွင်းမြစ်အထက်ပိုင်း ကလေးဝ အနီး ဂဇက်နယ်သားဖြစ်သည်။ ထိုဦးကြာရဲသည် မင်းတုန်းမင်းကြီး စံကျောင်းတိုက်သို့ထွက်တော် မူလာတိုင်း နောက်တော်ပါးကလိုက်ပါလာခဲ့ရပြီး စံကျောင်းတိုက်သို့ရောက်လျှင် ခေတ္တအားလပ်ခိုက် မိမိဒေသတူ ချင်းတွင်းသားရှင်နေယျ၊ ရှင်သီရိနှင့် လယ်တီဆရာတော်ကြီးလောင်းလျာဘုန်းကြီး ရှင်ဉာဏတို့ထံသွားရောက်၍ စကားစမြည်ပြောဆိုလျှောက်ထားနေလေ့ရှိပါသည်။ ယခုသော် မင်းတုန်းမင်းကြီး၏ ထီးတော်မိုးမောင်ကြာရဲသည် မြို့သူကြီးဦးကြာရဲဖြစ်ခဲ့ပြီး၊ မိမိငယ်စဉ်ကပင် သိကျွမ်းရင်းနှီးကြည်ညိုရင်းရှိပြီးဖြစ်သော ရှင်နေယျကို မိမိအုပ်ချုပ်ရသော ဗာန်းလက်မြို့သစ်တွင် ကျောင်းဆောက်လှူခဲ့သည်။ ထိုကျောင်းအတွင်း ၁၂၆၁–ခုနှစ်၊ နယုန်လ(အေဒီ ၁၈၉၉–ခုနှစ်၊မေလ) တွင် သိမ်သမုတ်သောအခါတွင် ကျောင်းဘုန်းကြီးအရှင်နေယျနှင့် ကျောင်းဒကာဦးကြာရဲတို့ တိုင်ပင်၍ မုံရွာမြို့ လယ်တီဆရာတော်ကြီးအား ဗာန်းလက်သို့ပင့်ဆောင်ခဲ့ကြသည်။*၁

လယ်တီဆရာတော်ကြီးအား စိန်တုံးအမည်ပေးထားသော အကျယ်ဗျက်ငါးတောင်တစ်မိုက် ရှိ လောင်းလှေကြီးဖြင့်*၂ မုံရွာမှ ဗာန်းလက်(ကလေးဝ)သို့အရောက် ခမ်းနားစွာပင့်ဆောင်ကြ ခြင်းဖြစ်သည်။*၃ ကလေးဝမြို့မှတစ်ဖန် ဆင်ခေါင်းကျေးရွာ မြို့သစ်တောရကျောင်းအတွင်းရှိ သိမ်သို့ ကြွရောက်သမုတ်ကြရာတွင်ပါဝင်သော သံဃာတော်များစာရင်းကို သိမ်ကျောက်စာ၌ အောက်ပါအတိုင်းရေးထိုးမှတ်တမ်းတင်ထားပါသည်။

- 'သုတ်, ဝိနည်း, အဘိဓမ္မာ အဖြာဖြာသောကျမ်းတို့ကို တစ်ဖက်ကမ်းခတ် ဒိုးရဟတ် ကဲ့သို့ တတ်ကျွမ်းသိမြင်တော်မူပေသော မုံရွာမြို့ လယ်တီတိုက်ဆရာတော်ဦးဉာဏ၊ ဝါတော်–၃၃။
- ကန္နီမြို့ ကင်းဗောဓိဆရာတော် ဦးဝိသုဒ္ဓ၊ ဝါတော်–၃၃။
- မင်းကင်း ၅ မြို့ ၅ ရွာ ဂိုဏ်းအုပ်ဆရာတော်ဦးနန္ဒ၊ ဝါတော်–၃၅။
- မောရိယတိုင်းဖြစ်သော ကလေးဝမြို့အဝင် ကျောက်တန်းဆရာတော်ဦးနာရဒ။
- ဗာန်းလက်မြို့ ဂိုဏ်းထောက်ဆင်ခေါင်းဆရာတော်ဦးသူရိယ၊ ဝါတော်–၂၂။
- မစိန် ရွှေ ၆ ရွာ ဂိုဏ်းအုပ်ဆရာတော် ဦးနန္ဒိယ၊ ဝါတော်–၃၉။
- မစိန် ဂိုဏ်းထောက်ရေဝန်းဆရာတော်ဦးကေတု။

---

*၁ ဝနဝါသီအရှင်မကုဋ၏ ကျေးဇူးရှင်လယ်တီဆရာတော်ကြီးနှင့် ဗာန်းလက်မြို့သူကြီးဦးကြာရဲ(ဆောင်းပါး)။ လပြည့်ဝန်း စာစောင်၊ အမှတ်–၇၃၄။ ၂၀၀၁–ခုနှစ်၊ ဒီဇင်ဘာလ။ (စာမျက်နှာ ၁၂၈–၁၃၁)။

*၂ ယခုတိုင် ထိုလောင်းလှေကြီးသည် ကလေးဝမြို့နယ် ဆင်ခေါင်းကျေးရွာ မြို့သစ်ကျောင်း၌ရှိနေသေးသည်။

*၃ ဉာဏ်မင်း၏ ဗားမဲ့ဆရာတော်နှင့် ကလေးဝအဘိုးဆရာတော်။ ၁၉၉၈–ခုနှစ်။ (စာမျက်နှာ–၁၅၁)။

– မစိန် မှန်ပင်ဆရာတော်ဦးသာဂရ။
– မစိန် မိုးကောင်းဆရာတော် ဦးဣန္ဒက။
– ဗာန်းလက်မြို့နယ်အတွင်းရှိ ဝါတော် ၄၉–ဝါရသော ဇီးတောဆရာတော်ကြီးဦးသာသန
ကို နာယကအကြီးအမှူးပြု၍ သံဃာတော်ပေါင်း ၅၀–ကျော်နှင့်' –ဟူ၍ဖြစ်ပါသည်။*၁

လယ်တီဆရာတော်ကြီးသည် သိမ်သမုတ်ပွဲပြီးသော် ထိုဗာန်းလက်မြို့သစ်၏တောင်ဘက်ရှိ ကျောက်တောင်ခြေရင်း၌ တောရဆောက်တည်ကာ တရားဘာဝနာများ ခေတ္တအားထုတ်နေခဲ့ပြီး မုံရွာမြို့သို့ပြန်ကြွတော်မူခဲ့ပါသည်။*၂

**ပလိဗောဓဖြတ်တောက်တော်မူခြင်း**

လယ်တီဆရာတော်ကြီးသည် တောတောင်ကိုခင်မင်သော နေက္ခမ္မဓာတ်သယစိတ်ဆန္ဒရှိတော်မူလင့်ကစား ကံ၏အကျိုးပေးမှုကြောင့် တောတောင်ရိပ်ကိုအစဉ်ခိုဝင်နေထိုင်ခွင့်မရဘဲ ပရိယတ်ဝုရဟူသော စာပေသင်ကြားပို့ချမှု၊ ဂန္ထဝုရစာပေကျမ်းဂန်ပြုစုမှုဟူသော ပလိဗောဓတို့ဖြင့် အချိန်များစွာကုန်တော်မူခဲ့ရပါသည်။ လယ်တီဆရာတော်ကြီး ယခု သက္ကရာဇ်–၁၂၆၁ (အေဒီ–၁၈၉၉)ခုနှစ်တွင် မိမိ၏သက်တော်ရှယ်တော်မှာလည်း ၅၄–နှစ်အတွင်းသို့ရောက်ရှိခဲ့ပြီဖြစ်၍ ကျောင်းကန်, တပည့်သံဃာ, စာသင်မှု, စာရေးမှု, တရားဟောမှု–စသော ပလိဗောဓတို့ကို လွှတ်လွှတ်စွန့်ပယ်တော်မူလိုသဖြင့် တပည့်ရင်းရှင်ပဏ္ဍိတအား–

'အသက် ၅၅–နှစ်က ၆၀–အတွင်းမှာ ပဋိပတ်လုပ်ရန်အရွယ်ဟု ပိုင်းခြားထားကြောင်း' မိန့်ဆိုပြီးလျှင် ဆက်လက်၍–

'မင်းတို့လူတွေကိုညှာလို့ အသက် ၅၅–နှစ်ပိုင်းခြားရတယ်၊ တကယ်လို့ဆိုတော့ အသက်လေးဆယ်ပြည့်သည့်နှစ်ကစပြီး ပဋိပတ်အလုပ်ကို အားထုတ်ဖို့သင့်တဲ့ အချိန်ပဲ' –ဟူ၍ အမိန့်ရှိတော်မူခဲ့ပါသည်။*၃

ဆရာတော်ကြီး၏မူလမျှော်မှန်းချက်မှာ မိမိ မဇ္ဈိမဒေသမှပြန်ကြွလာပြီး ဆပုဂံတောရ၌ တရားဝင်စဉ်အခါကပင် နောင်တိုက်တာအုပ်ချုပ်ရေးကို တပည့်ကြီးများထဲမှ အရှင်တိလောက၊*၄ အရှင်နေယျ၊*၅ အရှင်သီရိ၊*၆ အရှင်ဇာဂရ*၇–စသည့်ပုဂ္ဂိုလ်တို့အား လေးပါးဆိုင် တိုက်တာ

*၁ ကလေးဝမြို့နယ် ဆင်ခေါင်းကျေးရွာအုပ်စု မြို့သစ်ရွာ ခဏ္ဍသိမ်ကျောက်စာမှတ်တမ်းမှ။

*၂ ဝနဝါသီအရှင်မကုဋ၏ ကျေးဇူးရှင်လယ်တီဆရာတော်ကြီးနှင့် ဗာန်းလက်မြို့သူကြီးဦးကြာရဲ(ဆောင်းပါး)။ (စာမျက်နှာ–၁၃၀)။

*၃ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ တိပိဋကနီတိ(ဆောင်းပါး)။ လယ်တီတရားသတင်းစာ။ ၁၂၈၈–ခုနှစ်၊ တန်ဆောင်မုန်းလ။ (စာမျက်နှာ–၅၇)။

*၄ သေက္ခတောင်ဆရာတော်ဖြစ်သည်။

*၅ ဗာန်းလက်တောကျောင်းဆရာတော်ဖြစ်သည်။

*၆ ကလေးဝတောကျောင်းဆရာတော်ဖြစ်သည်။

*၇ ကင်းစမ်းတောရဆရာတော်ဖြစ်သည်။

လွှဲအပ်ရန်ဟူသော စိမံချက်တစ်ရပ်ရှိတော်မူခဲ့ဖူးပါသည်။ သို့ပါသော် လယ်တီဆရာတော်ကြီး၏ ထိုစီမံချက်အကောင်အထည်မဖော်မီ တပည့်ကြီးတို့ကဦးစွာကပင် တောကျောင်းနေခြင်း၊ တောရ နိုင်ကြခြင်း–စသည်တို့ကြောင့် ထိုတပည့်များကို တိုက်တာလွှဲအပ်ခွင့်မရခဲ့ပေ။ ယခုမူ တိုက်အုပ် ဘုန်းကြီးအရှင်နေယျနေရာ၌ အရှင်ဇာဂရကိုထား၍အုပ်ချုပ်စေရာတွင် အရှင်ဇာဂရသည်တိုက်တာ ကိုကောင်းစွာအုပ်ချုပ်ကွပ်ကဲနိုင်ကြောင်းတွေ့ရသည်။ သို့ဖြစ်၍ လယ်တီတိုက်တာကိုအုပ်ချုပ် ရန် အရှင်ဇာဂရအားတစစလွှဲအပ်ပြီး မိမိမှာတောတောင်ရိပ်ခိုဝင်ကာ တရားဘာဝနာအလုပ် အချိန်ပြည့်အားထုတ်လုပ်ကိုင်ရန် ရည်ရွယ်ချက်ထားတော်မူပြန်ပါသည်။ ဤအကြောင်းတို့ကို တပည့်ရင်းရင်ပဏ္ဍိတကို မိန့်ကြားပြီးဖြစ်ရာ ရှင်ပဏ္ဍိတက နောင်သောအခါ ဆရာတော်ကြီး၏ ထေရုပ္ပတ္တိချုပ်ရေးရာတွင်–

'ရဟန်းသံဃာတော်တို့၏အကျိုးစီးပွား၊ သာသနာတော်မြတ်၏အကျိုးစီးပွား တို့ကို များစွာဆောင်ရွက်တော်မူပြီးသောအခါ မြန်မာသက္ကရာဇ် ၁၂၆၁–ခုနှစ်မှစ၍ ပလိဗောဓေပ်သိမ်းတို့ကို ရပ်သိမ်းပယ်ဖြတ်တော်မူပြီးလျှင် တောတောင်ဝင်ကာ ချမ်းသာစွာနေတော်မူ၏'–ဟူ၍ ရေးသားထားခဲ့သည်။*၁

လယ်တီဆရာတော်ကြီးသည် ပလိဗောဓဖြတ်တောက်သောအနေဖြင့် မိမိတည်ထောင် ထားသော လယ်တီတိုက်တာကြီးကိုစွန့်၍ တောတောင်အရပ်ခိုမှီးသည်ဆိုရာတွင် ယခုနှစ် ၁၂၆၁–ခုနှစ် လယ်တီတောရတွင်ဝါကပ်တော်မူပြီးသည့်နောက်၌ နောင်နှစ်များစွာအတွင်း ခရီးသွားရင်းလမ်းကြုံသည်နှင့် အာဂန္တုပမာနှစ်ကြိမ်မျှသာ*၂ ဤလယ်တီတောရသို့ပြန်လည် ရောက်ရှိဝါကပ်ခဲ့ပြီး၊ ကျန်ဝါတွင်းကာလများစွာတို့ကို တောတောင်ဒေသမြို့ရွာအသီးသီးတို့၌ အငြိအတွယ်မရှိ ဝါကပ်၍ တရားဘာဝနာအလုပ်ဖြင့် မွေ့လျော်ပျော်ပိုက်ခဲ့ပြီဖြစ်သည်။ သို့ပါ၍ ကျေးဇူးရှင်လယ်တီဆရာတော်ကြီး၏ လယ်တီတောရအတွင်း၌ စွဲမြဲစွာနေထိုင်မှုကိစ္စသည် ဤနှစ် (၁၂၆၁–ခုနှစ်)ကို နောက်ဆုံးကာလဟုဆိုသော် ဆိုသင့်သည်ပင်။

**စတုတ္ထိသတိမဝါကပ်တော်မူခြင်း**

ကျေးဇူးရှင်လယ်တီဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၆၁–ခုနှစ်၊ ဝါဆိုလ(အေဒီ ၁၈၉၉– ခုနှစ်၊ ဇူလိုင်လ)တွင် မုံရွာမြို့အရှေ့တောင်ဘက် လယ်ဇင်ရွာ ဓမ္မိကာရာမတိုက်အတွင်းရှိ ဓမ္မနန္ဒကျောင်းတွင် စာသင်သံဃာပရိသတ်များနှင့်တကွ (၃၄)ကြိမ်မြောက် စတုတ္ထိသတိမဝါကို ကပ်ဆိုတော်မူပါသည်။*၃

---

*၁ လယ်တီပဏ္ဍိတ၏ သဒ္ဒမဥ္ဇရီကျမ်း။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၉၆–ခုနှစ်။ (စာမျက်နှာ–၄၄၄)။

*၂ ထို သက္ကရာဇ်–၁၂၆၁(အေဒီ–၁၈၉၉)ခုနှစ်မှ ပျံလွန်တော်မူသော သက္ကရာဇ်–၁၂၈၅(အေဒီ–၁၉၂၃)ခုနှစ်အထိ နှစ်ပေါင်း (၂၄)နှစ်အတွင်း သက္ကရာဇ်–၁၂၇၂(အေဒီ–၁၉၁၀)ခုနှစ်နှင့် သက္ကရာဇ်–၁၂၇၆ (အေဒီ–၁၉၁၄)ခုနှစ် ထိုနှစ်တို့တွင်သာ လယ်တီတောရသို့ပြန်၍ဝါကပ်တော်မူခဲ့သည်။ ထိုနှစ် နှစ်ဝါကပ်ရာတွင်လည်း ပထမအကြိမ်မှာ နေမကောင်း၍ဝါကပ်ခြင်း ဖြစ်ပြီး၊ ဒုတိယအကြိမ်မှာ စက္ခုတော်ကွယ်နေ၍ ဆေးဝါးကုသမှုခံယူရန် ဝါကပ်ခြင်းမျှဖြစ်သည်။

*၃ လယ်တီဆရာတော်ကြီး၏ နိဗ္ဗာနဒီပနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၁–ခုနှစ်။ (စာမျက်နှာ–၁)။



မုံရွာမြို့၊ အရှေ့တောင်ဘက် လယ်ဇင်ရွာရှိ ဓမ္မိကာရာမကျောင်းတိုက်ကြီး



ကျောင်းအတွင်းရှိရေတွင်း



ဥပုသ်သည်များအတွက်ဇရပ်







ဓမ္မိကာရာမကျောင်းတိုက်အတွင်းရှိ ရှေးဘုရားများ(ယခုပြုပြင်ထားသည်)

လယ်ဇင်ရွာ

လယ်ဇင်ရွာသည် မုံရွာမြို့၏အရှေ့တောင်ဘက် လေးမိုင်ခန့်အကွာတွင်တည်ရှိသည်။[၁] လယ်ဇင်ရှိ ယာမြေတို့သည် မိုးရေသောက်ရရုံမက ရွာအရှေ့ဘက်ရှိ ကျောက်ကာတောင်မှ တောင်ကျရေကိုပါသောက်ရသဖြင့်[၂] သီးနှံမျိုးစုံစိုက်ပျိုးဖြစ်ထွန်းပြီး အလွန်အေးချမ်းသာယာသော ရွာကြီးဖြစ်သည်။ ထိုစဉ်အခါက လူဦးရေမှာ ၁,၀၀၀–ခန့်သာသာရှိသေးသည်။[၃] ဥစ္စာပစ္စည်း ကြွယ်ဝသူများ၍ သာသနာရေး၌စိတ်ပါကြပြီး သဒ္ဓါတရားထက်သန်ကြသူများလည်းဖြစ်သည်။ လယ်ဇင်ရွာမှ သူကြီးဦးဆယ်တို့မိသားစုသည် လယ်တီတောရကို ကိုးကွယ်ဆည်းကပ်ကြသည်။ ယခုအခါ၌ လယ်တီဆရာတော်ကြီးသည် မိမိတိုက်တာပလိဗောဓတို့ကိုဖြတ်တောက်ပြီး တောရပ် နိဝင်တော်မူမည်ကို သူကြီးဦးဆယ် သတင်းကြားသိလျှင်ပင် မိမိ၏လယ်ဇင်ရွာသို့လည်း ဆရာတော် ကြီးအားပင့်ဆောင်ထားနိုင်ရန် အစီအစဉ်များပြုလုပ်ခဲ့သည်။

သူကြီးဦးဆယ်သည် ဦးစွာ ရွာ၏အရှေ့မြောက် ရွာဦးစေတီတည်ထားသောနေရာတွင် ပခုက္ကူသစ်ဆိမ့်အရပ်က လက်သမားနှင့်ပန်းပုဆရာဦးဘိုးကာကိုခေါ်ယူပြီး အသားကျောင်းကြီး တစ်ကျောင်း သက္ကရာဇ် ၁၂၆၀–ပြည့်နှစ်ကပင် စတင်ဆောက်လုပ်ခဲ့သည်။ ထိုကျောင်းကြီးတွင် အရှေ့ဘက်၌ ဘုရားဆောင်၊ သံဃာစင်၊ သံဃာများသီတင်းသုံးရာဌာန–စသည်ကို ကျောင်းဦး ပြာသာဒ်နှင့်တကွဆောက်လုပ်စေပြီး စကြံလမ်းနှင့်တကွ ဆရာတော်ကြီးသီတင်းသုံးရန် သီးသန့် အဆောင်၊ ပစ္စည်းထားသိုရန် ဘောဂဆောင်၊ အနောက်ဘက်၌ ဆွမ်းစားဆောင်နှင့် ကျန် ရှင်သာမဏေတို့အတွက် သီးသန့်အဆောင်တွဲတစ်ခုဖြင့်ဆောက်လုပ်စေခဲ့သည်။ လက်သမား ဆရာဦးဘိုးကာကလည်း ပန်းပုပညာကျွမ်းကျင်၍ အနုပညာမျက်စိရှိသူပီပီ ဤကျောင်းကို ပန်းပုလက်ရာ များစွာဖြင့်ဆောက်လုပ်ခဲ့ရာ၊ တိုင်ပေါင်း(၉၉)တိုင်[၄] ပါရှိပြီး သစ်အသားပြား ကလေးများကို အုတ်ချပ်များသဖွယ် အုပ်မိုးထားခဲ့သည်။ ထိုခေတ်က ငွေကျပ်ဒင်္ဂါး–၂၆ရ၄ ကုန်ကျခဲ့ပါသည်။ ထိုကုန်ကျ ငွေကို 'ကွမ်းသီးတစ်လုံး'ဟု လင်္ကာတိုမှတ်သားခဲ့ကြသည်။[၁]

---

*၁ လယ်ဇင်ရွာသည် ရှေးကဆုတောင်းပြည့်ဘုရားတည်ရှိရာ မုံရွာမြို့လယ်မှသော် လေးမိုင်ခန့်ကွာဝေးခဲ့သော်လည်း၊ ယခုအခါ မုံရွာနှင့်လယ်ဇင်သည် တဆက်တစပ်တည်းဖြစ်နေပြီဖြစ်သည်။

*၂ မိုးရွာပြီဆိုလျှင် ကျောက်ကာတောင်ရိုးမှ တောင်ကျရေခေါ် ယမားရေတို့သည် တောင်ခြေရင်းမှဒလဟောစီးဆင်းရာ ထိုတောင်ခြေရှိ တဲသာကျေးရွာ၊ ရတုံကျေးရွာ၊ ထိုမှ ကိုင်းတောရွာနှင့် သပြေပင်စုရွာ၊ စီးကျွန်းရွာအကြားမှဖောက်၍ တစ်ဖန် ပလ္လင်ရွာ၊ သက်ကယ်ကျင်းရွာမှတစ်ဆင့် တောင်ခြေနှင့်ခြောက်မိုင်ကွာသော လယ်ဇင်ရွာသို့ တောင်ကျရေရောက် တော့သည်။ ထိုလယ်ဇင်မှတစ်ဖန် တစ်မိုင်ခန့်အကွာရှိ ဆားကျင်းရွာသို့စီးပြီး ဆားကျင်းအင်းထဲ နောက်ဆုံးရောက်ရ ပါသည်။ ဤသို့ လယ်ဇင်ရွာသည် ကျောက်ကာတောင်ကျရေရသည်ကို 'ကျောက်ကာက မိုးနတ်တင်၊ လယ်ဇင်ရွာ ကောင်းစား ဘို့'ဟု ပြောစမှတ်တွင်ခဲ့သည်။ လယ်ဇင်သိန်းဖေ၏ လယ်ဇင်ရွာသာပါဘိလေး(ဆောင်းပါး)။ ချင်းတွင်း မဂ္ဂဇင်း၊ အမှတ်–၂၊ ၁၉၈၈–ခုနှစ်။ (စာမျက်နှာ–၁၃၃)။

*၃ လယ်ဇင်ရွာတွင် အေဒီ ၁၈၉၁–ခုနှစ်၌ လူဦးရေ–၉၂၁၊ အေဒီ ၁၉၀၁–ခုနှစ်၌ ၁,၁၆၀–ရှိသည်။ J.P. Hardiman˘ Lower Chindwin District Gazetteer, reprint 1967. Page-215.

*၄ ရှေးက ထိုကျောင်းတွင် တိုင် ၁၀၀–ရှိသည်ဟုသိရသည်။

ကျောင်းဆောက်ပြီးသော် ကျောင်းအနီး၌ စေတီ, ရေတွင်း, ဥပုသ်သည်များနေရန်အတွက် ဇရပ်-စသည်တို့ကိုပါ တည်ထားဆောက်လုပ်ခဲ့ပြန်သည်။

ဤသို့ကျောင်းကြီးဆောက်ပြီးစီးသည့်အခါ သူကြီးဦးဆယ်က ကျေးဖူးရှင်လယ်တီဆရာတော်ကြီးအား လယ်ဇင်ရွာကျောင်းသစ်ကို အလှူခံကြွရောက်တော်မူပါရန် ပင့်လျှောက်ခဲ့သည်။ ဆရာတော်ကြီးကလည်း တပည့်သံဃာအခြံအရံတို့ဖြင့် လယ်ဇင်ရွာ ကျောင်းသစ်ကျောင်းသို့ ကြွရောက်၍ ကျောင်းအလှူကိုခံယူတော်မူခဲ့ပါသည်။ တိုက်ကို ဓမ္မိကာရုံ၊ ကျောင်းကိုကား ဓမ္မနန္ဒ-ဟု အမည်ပေးတော်မူခဲ့သည်။

လယ်ဇင်ရွာနှင့် ဓမ္မိကာရုံတိုက်၊ ဓမ္မနန္ဒကျောင်းတို့၏တင့်တယ်ပုံနှင့် ထိုကျောင်း၌ မိမိတို့ဝါဆိုကြပုံအကြောင်းစုံတို့ကို လယ်တီဆရာတော်ကြီးက အောက်ပါအတိုင်း ဂါထာဖွဲ့စီရေးသားတော်မူခဲ့ပါသည်။

တ္တောဝတာ စ-

* ခေတ္တပါဠိဂါမေသန္ဓေ၊ ကာရိတေ ဂါမဘောဇိနာ။
သုဝိဘတ္တေ သုဝိသာလေ၊ ဓမ္မိကာရာမနာမကေ။

* ဓမ္မနန္ဒေ ဝိဟာရမှိ၊ သုဝိစိတ္တေ မနောရမေ။
ဝသတာ မဟတော ဘိက္ခု၊ ဂဏာဿ ဓမ္မဝါစိနာ။

စ-ဆက်၍ဆိုဦးအံ့။ တ္တောဝတာ-ဤမျှအတိုင်းအရှည်ရှိသော စကားအစဉ်ဖြင့်၊ ခေတ္တပါဠိဂါမေ-မုံရွာမြို့နယ် လယ်စဉ်[*၂] အမည်ရှိသောရွာ၌၊ သန္ဓေ-အရှေ့မြောက်စပ်ထောင့်အရပ်၌၊ ဂါမဘောဇိနာ-လယ်စဉ်ရွာစား တရားပျော်မီးတိုက်သူကြီး[*၃] သည်၊ ကာရိတေ-၁၂၆၀ ပြည့်နှစ် သက္ကရာဇ်တွင် အသစ်တည်ထောင်အပ်သော၊ သုဝိဘတ္တေ-ပရိဝုဏ်မျဉ်းတား ဘုရားသိမ်ကျောင်း အပေါင်းသစ်ပင် ဥယျာဉ်ရေတွင်း နတ်ဖန်ဆင်းသကဲ့သို့ ခင်းကျင်းဘွယ်ရာ ကောင်းစွာ

---

*၁ ထိုစဉ်က ကျောင်းကိုတာဝန်ခံဆောက်လုပ်ခဲ့သူ ဆရာကြီးဦးဘိုးကာ၏သား စန်းမြဝတီဦးဘသက်(၈၊ ၈၊ ၁၉၈၄)နေ့က ပြောပြချက်ဖြစ်သည်။ ဆရာကြီးဦးဘိုးကာသည် ဤကျောင်းဆောက်ရင်းပင် လယ်ဇင်ရွာသူ ဒေါ်ကြာဆိုင်နှင့် အိမ်ထောင်ကျပြီး ဓမ္မကထိကဆရာကြီးဦးလှသိန်း၊ စန်းမြဝတီဦးဘသက်နှင့် ဂီတစာဆို မုံရွာဦးလေးခန့်တို့ကို ဖွားမြင်ခဲ့ပါသည်။

*၂ လယ်တီဆရာတော်ကြီးက လယ်ဇင်ရွာကို ပါဠိဘာသာဖြင့် 'ခေတ္တပါဠိ'ဟု သုံးနှုန်းတော်မူပါသည်။ ခေတ္တ=လယ်+ပါဠိ=အစဉ်အတန်း။ လယ်ကွက်လယ်ပြင်များ အစဉ်အတန်းလိုက်တည်ရှိနေသောအရပ်-ဟု ဆိုလိုဟန်ရှိပါသည်။ လယ်တီဆရာတော်ကြီး၏ နိဗ္ဗာနဒီပနီ။ ၁၉၅၁-ခုနှစ်။ (စာမျက်နှာ-၁၇၅)။

*၃ လယ်ဇင်သူကြီးဦးကံဆယ်ကို တိုက်သူကြီး-ဟု ဆရာတော်ကြီးကသုံးနှုန်းပါသည်။ ယင်း။ (စာမျက်နှာ-၁၇၅)။ တိုက်သူကြီး-ဟူသည် ကျေးရွာအကြီးအကဲကိုဆိုလိုသည်။ မြို့သူကြီးဟု မြို့ထည့်၍ခေါ်ခြင်းမှာ ဂုဏ်ရှိန်မြှင့်လို၍ခေါ်ခြင်းသာဖြစ်ပြီး သူကြီးဆိုလျှင် ကျေးရွာနှင့်သာသက်ဆိုင်လေသည်။ ဒေါက်တာတိုးလှ၏ ကုန်းဘောင်ခေတ်ကျေးလက်လူမှုစီးပွားဘဝ(၁၇၅၂-၁၈၈၅)။ မြန်မာသမိုင်းအဖွဲ့၊ ရန်ကုန်မြို့။ ၂၀၀၄-ခုနှစ်။ (စာမျက်နှာ-၉)။








လယ်ဇင်ရွာ ဓမ္မိကာရာမကျောင်းတိုက် ဓမ္မနန္ဒကျောင်းတော်အတွင်းပိုင်း ပန်းပုလက်ရာများ

ဝေဘန်အပ်သော၊ သုဝိသာလေ–ကျယ်ဝန်းပုံ့ပျူးစွာထသော၊ ဓမ္မိကာရာမနာမကေ–ဓမ္မိကာရုံအမည်ရှိသောကျောင်းတိုက်၌၊ သုဝိစိတ္တေ–စမွံယ်ယွန်းထပ် ခြယ်မွှမ်းလတ်၍ နတ်ဝိသုကံ စီမံခဲ့ယမ်း ပျံဘနန်းလျှင် ဆန်းကြယ်ထူးမြတ်သော အပြောက်အပြိန်းလည်းရှိထသော၊ မနောရမေ–ရှုသူမြင်သူ အများလူတို့ ကြည်ဖြူရွှင်ပြုံး နှလုံးမွေ့လျော်ရာလည်းဖြစ်ထသော၊ ဓမ္မနန္ဒေဝိဟာရမှိ–ဓမ္မနန္ဒအမည်ရှိသောကျောင်းကြီး၌၊ ဝသတာ–သီတင်းသုံးနေထသော၊ မဟတော–များစွာသော၊ ဘိက္ခုဂဏာသ–ရဟန်းသံဃာအပေါင်းအား၊ ဓမ္မဝါစိနာ–ကျမ်းဂန်ဓမ္မ ပို့ချသင်ကြားကာနေသော၊ မယာ–မုံရွာမြို့ လယ်တီတောကျောင်းဆရာငါသည်'*၁–ဟူ၍ဖြစ်ပါသည်။

## လယ်ဇင်ရွာကျောင်းသစ်ရောက်စ

လယ်တီဆရာတော်ကြီးသည် လယ်ဇင်ရွာ ဓမ္မနန္ဒကျောင်းသို့ ရောက်တော်မူစအခါက ကျန်းမာရေးပြည့်စုံဟန် လက္ခဏာမရှိပေ။ သို့ဖြစ်၍ သက္ကရာဇ် ၁၂၆၁ (အေဒီ–၁၈၉၉)ခုနှစ်တွင် ကျောင်းကန် စသော ပလိဗောဓတို့ဖြတ်တောက်၍ တောရဆောက်တည်ရန် ရည်ရွယ်ထားပြီးဖြစ်သော်လည်း ကျန်းမာရေးကြောင့် တောရမဝင်နိုင်။ ထိုနည်းတူ စာပေကျမ်းဂန်ရေးသားရန် ကြံရွယ်ချက်ရှိပါသော်လည်း ကျန်းမာရေးမပြည့်စုံသည့်အတွက် မည်သည့်ကျမ်းကိုမျှမရေးနိုင်သေးဘဲ တပည့်သံဃာတို့အား စာဝါမှန်မှန်ပို့ချ၍သာ ခပ်အေးအေးနေတော်မူခဲ့ဟန်ရှိပါသည်။

ကျမ်းဂန်ရေးမှုသည် ကျန်းမာရေးကိုထိခိုက်စေခြင်းနှင့်စပ်၍ ထိုနှစ် ဝါမဝင်မီ နယုန်လက မန္တလေးမဟာဝိသုဒ္ဓါရုံဆရာတော်ကြီးထံလျှောက်ထားပေးပို့သောစာတစ်စောင်တွင်–

> 'ကျမ်းဂန်ရေးမှုမည်သည်လည်း တစ်နေ့တခြား အသားအသွေး အစေးအဆီ ခမ်းခြောက်စေတတ်သော အလုပ်ဖြစ်ပါသည်။ ဝိသမဓာတ်တို့ကို ဖြစ်ပွားစေတတ်ပါသည်။ ကျမ်းရေးစဉ်အခါ မထောင်းတာရှိသော်လည်း ကျမ်းပြီး၍ တစ်စုံတစ်ရာ ရောဂါကပ်ရောက်ပါလျှင် ဆေးကု၍မရ, မထတဲ့နိုင်ဘဲရှိတတ်ပါသည်။ သို့အတွက်ကြောင့် ကြီးကြီးမားမား ကျမ်းရေးမှုများကို လျစ်လျူရှုတော်မူ၍–
>
> (က) ယော စ ဝဿသတံ ဇီဝေ၊ ဒုဿီလော အသမာဟိတော။
> ကောဟံ ဇီဝိတံ သေယျော၊ ပညဝန္တဿ ဈာယိနော။
>
> (ဓမ္မပဒ၊ ဂါထာ–၁၁၀)။
>
> (ခ) ယော စ ဝဿသတံ ဇီဝေ၊ ဒုပ္ပညော အသမာဟိတော။
> ကောဟံ ဇီဝိတံ သေယျော၊ ပညဝန္တဿ ဈာယိနော။
>
> (ဓမ္မပဒ၊ ဂါထာ–၁၁၁)။

---

*၁ လယ်တီဆရာတော်ကြီး၏ နိဗ္ဗာနဒီပနီ။ ၁၉၅၁–ခုနှစ်။ (စာမျက်နှာ–၁၇၅)။

(ဂ) ယော စ ဝဿသတံ ဇီဝေ၊ အပဿံ ဥဒယဗ္ဗယံ။
ကောဟံ ဇီဝိတံ သေယျော၊ ပဿတော ဥဒယဗ္ဗယံ။ *၁
(ဓမ္မပဒ၊ ဂါထာ–၁၁၃)။

ဟူသော ဓမ္မပဒပါဠိတော်အရများကို နှလုံးထား၍နေဖို့အရွယ်ဖြစ်ပါသည် *၂– ဟူ၍ ရေးသားတော်မူခဲ့ပါသည်။

ထို့ပြင် ထိုလျှောက်ထားလွှာ၏တစ်နေရာ၌–

'ယခုမှာမူကား အထက်မျက်နှာကလျှောက်ထားခဲ့သည့်အတိုင်း ကြီးကြီးမားမား စာရေးမှု၌ စိတ်မဝင်စားသာသေးသည်နှင့် မောဂ္ဂလ္လာနဒီပနီ *၃ ကိုပင် ဖြတ်လုပ်ရုပ်သိမ်း၍ထားရပါသေးသည် ဘုရား' *၄–ဟူသော စာပိုဒ်ကို ထည့်သွင်းရေးသားထားတော်မူရာ၊ လယ်တီဆရာတော်ကြီးသည် ကျန်းမာရေးမပြည့်စုံမှုကြောင့် ကျမ်းဂန်ရေးသားခြင်းကို ခေတ္တရပ်နားထားရကြောင်း မှန်းဆသိနိုင်လေသည်။ သို့ပါ၍ ဤနှစ် ဝါတွင်းကာလအတွင်း လယ်တီဆရာတော်ကြီးသည် ရာသီဥတုမျှတ ပတ်ဝန်းကျင်သာယာအေးချမ်းလှသော ဤလယ်ဇင်ရွာဓမ္မနန္ဒကျောင်းတွင် ကျန်းမာရေးပြည့်စုံအောင် တပည့်များ၏အပြုစုကိုခံ, အနားယူတော်မူခဲ့ပုံရပါသည်။

## လယ်တီဆရာတော်ကြီး၏ ပထမဦးပုံနှိပ်စာမူ

ကျေးဖုးရှင်လယ်တီဆရာတော်ကြီးသည် လယ်ဇင်ရွာ၌ ကျန်းမာရေးပြည့်စုံရန် မိမိကိုယ်အားစောင့်ရှောက်ရင်း ဝါကပ်ဆိုနေချိန်အတွင်း တပည့်ဖြစ်သူဦးတိလောကရေးသားသော အရိယာမဂ္ဂဒီပနီကျမ်းသည် ပုံနှိပ်မှုအဖြစ်သို့ရောက်၍ ဆရာတော်ကြီး၏လက်တော်သို့ ဆက်ကပ်လာခဲ့လေသည်။ ထိုကျမ်းတွင် ဆရာတော်ကြီးရေးစီရင်သော ဝိဇ္ဇာမဂ္ဂဒီပနီကျမ်းကို အစမှအဆုံး ထည့်သွင်းထားပြီးလျှင်၊ ထိုအရိယာမဂ္ဂဒီပနီကျမ်း၏အဆုံး၌ ၁၂၅၃ (အေဒီ–၁၈၉၁) ခုနှစ်က ဆရာတော်ကြီးအနက်ပြန်ဆိုခဲ့သော သုတ္တနိပါတပါဠိတော်လာ ပဓာနသုတ်နိဿယကိုလည်း ထည့်သွင်းဖော်ပြထားလေသည်။ ဤသို့ ဦးတိလောက၏အရိယမဂ္ဂဒီပနီကျမ်း၌ လယ်တီ

---

*၁ အထက်ပါဓမ္မပဒသုံးဂါထာတို့၏ မြန်မာပြန်မှာ–
(က) အကြင်သူသည် သီလမရှိဘဲ သမာဓိမတည်ကြည်ဘဲ အသက်တစ်ရာရှည်ငြားအံ့။ ထိုသူ၏ အသက်ရှည်ခြင်းသည် မမြတ်ချေ။ သီလရှိ၍ ဈာန်သမာပတ်ပွားများနေသောသူ၏ တစ်ရက်တာမျှအသက်ရှည်ခြင်းက မြတ်၏။
(ခ) အကြင်သူသည် ပညာမရှိဘဲ သမာဓိမတည်ဘဲ အသက်တစ်ရာရှည်ငြားအံ့။ ထိုသူ၏ အသက်ရှည်ခြင်းသည် မမြတ်ချေ။ သီလရှိ၍ ဈာန်သမာပတ်ပွားများနေသောသူ၏ တစ်ရက်တာမျှအသက်ရှည်ခြင်းကသာလျှင် မြတ်၏။
(ဂ) အကြင်သူသည် အဖြစ်အပျက်ကိုမရှုမြင်ဘဲ အနှစ်တစ်ရာ အသက်ရှည်ငြားအံ့။ ထိုသူ၏ အသက်ရှည်ခြင်းသည် မမြတ်ပချေ။ အဖြစ်အပျက်ကိုရှုမြင်သောပုဂ္ဂိုလ်၏ တစ်ရက်မျှအသက်ရှည်ခြင်းသည်သာလျှင် မြတ်၏။

*၂ လယ်တီဆရာတော်ကြီး၏ သာသနဝိသောဓနီ၊ တတိယတွဲ၊ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၂၃၀)။

*၃ ဤကျမ်းသည် နောင်အခါ နိရုတ္တိဒီပနီ–ဟူသောအမည်ဖြင့် ထင်ရှားပါသည်။

*၄ လယ်တီဆရာတော်ကြီး၏ သာသနဝိသောဓနီ၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၂၃၀)။

## ဤကျမ်းစာအုပ်များတွင် လယ်တီဆရာတော်ကြီးပြုစုတော်မူသော စာပေများကို ရှေးဦးထည့်သွင်း၍ ပုံနှိပ်ခဲ့ပါသည်။

ကျောက်ဘိုမြို့လျှင်စွမ်းခံရာဂေါ ဂါမကာသစ်ချ
ကောင်တောရန္တ၊ ယာပထလေးထော်ဖြင့်၊
မှုညီမကင်း၊ သိတင်းသုံးနေ
တော ံသော အရှင်တိလောကဂုဏ်ထိမ်မွန်သည်
ပြည့်စွန်စီရင်အပ်သော

# အရိယာမဂ္ဂဒီပနီကျမ်း၊

နှင့်၊
ဝိဇ္ဇာမဂ္ဂဒီပနီကျမ်း၊ ပဌာနသုတ်ပါဠိနိဿျ၊
ရင်းကျမ်း ၃ စောင်ကိုတစောင်ထည်း
ပုံနှိပ်လုပ်ဆောင် ါသည်၊

---

မအေးမေ။
၁၂၆၂-ခု၊ တော်သလင်းဆွန်း-၁၄ရက်နေ့
ပုံနှိပ်၍ပြီးသည်၊

---

ရန်ကုန်မြို့၊
၂၅ လမ်းစသိတန်း၊တိုက်နံပါတ်-၄၉
ကဗိမျက်မှန်စာပုံနှိပ်တိုက်၊

လယ်တီဆရာတော်ကြီး၏
ဝိဇ္ဇာမဂ္ဂဒီပနီနှင့်ပဌာနသုတ်နိဿျတို့ကို
ရှေးဦးထည့်သွင်းဖော်ပြခဲ့သော
ကျမ်းစာ



အနမတဂ္ဂ၊သံသာရဋ္ဋ၊ဖြစ်ကြခါခါ၊သတ္တဝါတို့၊ဆွေညာ
မကင်း၊ညီရင်းနှမ-မိဘ၊သားမြေး၊ပိုက်ထွေးယုယ၊သို့
လှနှင့်၊သားလှကြိပ်ကြိပ်၊အိပ်သူဇနီး၊ တသီးခင်ပွန်း၊
ချစ်ကျွမ်းဝင်ဘူး၊အထူးမေတ္တာ၊သက်ရောက်ပါ
လျက်၊ခန္ဓာပြောင်းလစ်၊အသစ်ဘဝ၊ဖြစ်ကာ
လန္တိက်၊မမှုမေတ္တာ၊သတ္တဝါကို၊ကရု
ဏာမဘာက်၊ရက်စက်
ဗိမ်းကား၊တိရစ္ဆာန်ကျားကဲ့သို့၊စိတ်ထား
ရှိုင်းပြ၊မရှိရအောင်၊မဟာပိသုဒ္ဓါရာမဆရာတော်ဘုရား
ကြီး၊ရေးသားဆုံးမတော်မူအပ်သော

# ဝေါဟာမာတိကာဩဝါဒကထာ

ကို၊မန္တလေးမြို့၊

# ဗုဒ္ဓဘာသာသာသနာပြုအသင်း၊

က၊ဝေဌလှူဒါန်းလိုသူတို့၊အလွယ်တကူရရှိအောင်၊
မှန်ကန်စွာစက်တင်ပုံနှိပ်၊လုပ်ဆောင်
၍ထားပါသည်။

---

အလှူဒါယကာအမည် ..........................................
အလုပ်အကိုင် ..........................................
နေရပ် ..........................................

၁၂၆၃-ခုနှစ်၊—တော်သလင်းလ။
အိန္ဒိယစာပုံနှိပ်တိုက်၊

လယ်တီဆရာတော်ကြီး၏
နွားမေတ္တာစာကို
ရှေးဦးထည့်သွင်းဖော်ပြခဲ့သော
ကျမ်းစာ

ဆရာတော်ကြီးရေးသားသော ဝိဇ္ဇာမဂ္ဂဒီပနီကျမ်းပုံနှိပ်ဖော်ပြခြင်းကား၊ ဆရာတော်ကြီးရေးသား သောစာပေတို့တွင် ပထမဦးဆုံးပုံနှိပ်မှုအဖြစ်ရောက်ရှိသောကျမ်း–ဟူ၍ကား မဆိုနိုင်ချေ။

အကြောင်းမှာ လယ်တီဆရာတော်ကြီးသည် မန္တလေးမြို့ စံကျောင်းတိုက်မှာ စာချဘုန်းကြီး ဘဝ သီတင်းသုံးနေစဉ်ကပင် ဝီသတိပုစ္ဆာဝိဿဇ္ဇနာခေါ် ပါရမီဒီပနီကျမ်းကို ဦးစွာရေးသား တော်မူခဲ့သည်။ ထို့နောက် မုံရွာမြို့ လယ်တီတောရအတွင်း တိုက်တည်ဆရာတော်ကြီးအဖြစ် သီတင်းသုံးနေစဉ်အခါမှာလည်း နွားမေတ္တာစာမှစ၍ မေတ္တာစာများစွာနှင့် ရူပဒီပနီကျမ်းတို့ကို ရေးသားခဲ့သည်။ မဇ္ဈိမဒေသမှပြန်ကြွလာပြီး ပဋိစ္စသမုပ္ပါဒ်ဒီပနီကျမ်းကိုရေးခဲ့သည်။ လွန်ခဲ့သော တစ်နှစ်ခန့် ၁၂၅၉–ခုနှစ်က သဂြိုဟ်မဟာဋီကာသစ်ကျမ်းကို ရေးသားခဲ့ပါသည်။ ထို့ပြင် ပဋ္ဌာနသုတ်နိဿယ၊ ကုက္ကုစ္စဝိနိစ္ဆယ၊ ဝိကာလဘောဇနာသိက္ခာပုဒ်ဝိနိစ္ဆယ၊ ဝိရတိသီလဝိနိစ္ဆယ– စသည်ဖြင့် ထိုထိုသောနိဿယနှင့် ဝိနိစ္ဆယတို့ကိုလည်း ရေးသားတော်မူခဲ့ပါသည်။

ဤသို့ စာပေကျမ်းဂန်အမျိုးမျိုးကို လယ်တီဆရာတော်ကြီးရေးသားတော်မူရာတွင် ဤစာပေ တို့ကို အများပြည်သူဖတ်ရှုဖို့ထက် မိမိအား အဘိယာစကပြု လျှောက်ထားသူတစ်စုဖတ်ရှုဖို့ကို အလေးထားကာရေးသားပေးတော်မူခဲ့ခြင်းဖြစ်သည်။ ထို့ပြင် လယ်တီဆရာတော်–ဟူသော ဂုဏ်သတင်းသည်လည်း မုံရွာမြို့ဝန်းကျင်၌သာ သင်းတပျံ့ပျံ့ရှိနေခဲ့ပြီး အခြားသောမြို့ပြပြည်ရွာ ပြည်သူအများနှင့် ဆက်စပ်မိလောက်အောင် ပျံ့နှံ့ခြင်းကား မရှိသေးပေ။ ထို့ပြင် ဆရာတော် ကြီးရေးသားပြုစုသောစာပေတို့ကို ပရိသတ်ကြားသို့ပျံ့နှံ့အောင်ဖြန့်ချိပေးနိုင်သော ပုံနှိပ်တိုက်စသည် တို့နှင့် အဆက်အသွယ်မရှိသေးသည်ဖြစ်၍ လယ်တီဆရာတော်ကြီး၏စာပေတို့မှာ လူတစ်ဦး တစ်ယောက်, လူတစ်အုပ်စု, တစ်နယ်တစ်ဒေသတို့၏လက်တွင်းမှာသာ တွင်ကျယ်ခဲ့ရဟန် လက္ခဏာရှိပေသည်။

သို့ပါသော် လွန်ခဲ့သောတစ်နှစ်ခန့် သက္ကရာဇ် ၁၂၆၀–ပြည့်(အေဒီ–၁၈၉၈)ခုနှစ်က ဓနုဖြူရှင် အာစရ၏ နမောဗုဒ္ဓါယဋီကာ၊ ကကြီးခခွေးဋီကာပါဠိနိဿယနှင့် မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ ဂေါဏာမာတိကာသြဝါဒကထာစာအုပ်ပုံနှိပ်ခဲ့ရာတွင် ထိုစာအုပ်တွင် ဂေါဏာမာတိကာ သြဝါဒ ကထာ(စာမျက် နှာ–၂၄၀)၌– 'ပဏ္ဍိတသုခမိန်တို့လည်း နှုတ်မြိန်သြဇာ ဤသို့မေတ္တာစာကို စီကာရေးသား အရပ်ရပ်မြို့ရွာများသို့ ပေးကြားဖြန့်ကမ်းလျက်ရှိပေသည်။ ဖြန့်ကမ်းသော မေတ္တာ စာကား'–ဟုအစချီကာ လယ်တီဆရာတော်ကြီး၏နွားမေတ္တာစာကို အပြည့်အစုံဖော်ပြထားသည်။*၁ သို့ဖော်ပြ ခဲ့သော်လည်း လယ်တီဆရာတော်ကြီး၏ 'အရှင်ဉာဏ'ဟူသောဘွဲ့အမည်နှင့် 'လယ်တီ ဆရာတော်'ဟူသော အမည်တို့ကို ဖော်ပြထားခြင်းမရှိပေ။ သို့ပါ၍ အဆိုပါ ဂေါဏာမာတိကာ သြဝါဒကထာကို ဖတ်ရှုရသူတို့အနေဖြင့် ထိုမေတ္တာစာကို လယ်တီဆရာတော်ကြီးရေးသားကြောင်း မည်သို့မျှသိကြလိမ့်မည်မဟုတ်ပေ။ ဤနည်းတူပင် သက္ကရာဇ်–၁၂၆၃(အေဒီ–၁၉၀၁)ခုနှစ်

---

*၁ အရှင်အာစရ၏ နမောဗုဒ္ဓါယဋီကာ၊ ကကြီးခခွေးဋီကာပါဠိနိဿယနှင့် ဂေါဏာမာတိကာသြဝါဒကထာ။ ဒုတိယအကြိမ်၊ ၁၉၇၂–ခုနှစ်။ (စာမျက်နှာ ၂၄၀–၂၄၅)။

တွင်လည်း မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ ဂေါဏမာတိကာသြဝါဒကထာကိုထပ်မံပုံနှိပ်ရာတွင် လယ်တီဆရာတော်ကြီး၏နွားမေတ္တာစာကိုပါ ထည့်သွင်းပုံနှိပ်ခဲ့သော်လည်း စာရေးသူဘွဲ့အမည်ကိုကား ဖော်ပြမထားခဲ့ပေ။*၁

ယခုပုံနှိပ်ထားသော အရိယာမဂ္ဂဒီပနီကျမ်း၌ ဦးတိလောကက လယ်တီဆရာတော်ကြီး၏ ဝိဇ္ဇာမဂ္ဂဒီပနီနှင့် ပဓာနသုတ်ပါဠိနိဿယတို့ကို လယ်တီဆရာတော်ကြီး၏ဂုဏ်ထူးဝိသေသတို့နှင့်တွဲဖော်ပြ၍ ထည့်သွင်းပုံနှိပ်ထားလေသည်။ ထို့ပြင် ကျမ်းဦးအစ 'ဤကျမ်းကို ရေးသားမြွက်ဆိုရခြင်းအကြောင်း အတ္တုပ္ပတ္တိနိဒါန်း'တွင်လည်း 'အထက်နိုင်ငံ မုံရွာမြို့ လယ်တီတောရဆရာတော်ဘုရားသည် အောက်နိုင်ငံ ကျိုက်ထိုမြို့ သစ်ချတောင်တောရ၌ ကေစာရ ဓမ္မဝိဟာရီအဖြစ်ဖြင့်နေသော တပည့်အား ချီးမြှောက်အားပေးခြင်းကိစ္စ– ကျိုက်ထိုမြို့ သစ်ချတောင်သို့ဆိုက်ရောက်ပုံ'ကစ၍ လယ်တီဆရာတော်ကြီး၏ ကျိုက်ထို့ဘီးလင်းခရီးစဉ်နှင့် လုပ်ငန်းကိစ္စတို့ကို ရေးဖွဲ့ထားပါသည်။*၂

ထိုအရိယာမဂ္ဂဒီပနီကျမ်း၌ လယ်တီဆရာတော်ကြီး၏ ဝိဇ္ဇာမဂ္ဂဒီပနီကျမ်းကိုဖော်ပြထားရာတွင်လည်း အချီးနိဒါန်းငယ်အဖြစ်ဖော်ပြထားသည်မှာ–

> 'ရုပ်နာမ်ခန္ဓာတို့၏ မမြဲသောအနိစ္စအချက်၊ ဆင်းရဲသောဒုက္ခအချက်၊ ကိုယ်မဟုတ်သော အနတ္တအချက်၊ ဤသုံးပါးသော အချက်စုအရာဌာနစုကို သိမြင်လိုကြသော ရဟန်းယောကျ်ား, မိန်းမများတို့အား ထိုအနိစ္စ–ဒုက္ခ–အနတ္တသဘောတို့ကို သိမြင်ကြစေခြင်းအကျိုးငှာ ငါတို့၏ကျေးဇူးရှင်ဖြစ်တော်မူပေသော မုံရွာမြို့ လယ်တီတောရဆရာတော်ဘုရားသည် ရေးသားထားစီရင်အံ့သော ဝိဇ္ဇာမဂ္ဂဒီပနီကျမ်းကို ယခုအခါ၌ ရေးကူးပြဆိုပေအံ့။ ပညာရှိသူတော်ကောင်းဖြစ်ကြသော ရဟန်းယောကျ်ား, မိန်းမများသည် ကြိုးစား၍ ကြည့်ရှုမှတ်သား နားလည်သိမြင်ကြလေကုန်'–ဟူ၍ဖြစ်ပါသည်။*၃ ထို့ပြင် ပဓာနသုတ်ပါဠိနိဿယကို ဖော်ပြရာတွင်လည်း လယ်တီဆရာတော်ကြီးရေးသားကြောင်း အထောက်အထားများနှင့်တကွ ဖော်ပြထားပြန်ပါသည်။*၄

ဦးတိလောက၏ အရိယာမဂ္ဂဒီပနီကျမ်းကို ဖတ်ရှုရသူတို့မှာ လယ်တီဆရာတော်ကြီး၏ ဝိဇ္ဇာမဂ္ဂဒီပနီကို တစ်တွဲတည်း တစ်စုတစ်ပေါင်းတည်း ဖတ်ရှုရသည်ဖြစ်၍ ထိုဝိဇ္ဇာမဂ္ဂဒီပနီကျမ်းပြုစုတော်မူသော မုံရွာမြို့ လယ်တီတောရဆရာတော်ကြီးကိုလည်း စာအရေးကောင်းသော ဆရာတော်ကြီးအဖြစ် အသိအမှတ်ပြုကာ လယ်တီဆရာတော်ကြီးအကြောင်းကို သိရှိလိုကြ

---

*၁ မဟာဝိသုဒ္ဓါရာမဆရာတော်ကြီး၏ ဂေါဏမာတိကာသြဝါဒကထာ။ အိန္ဒိယစာပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၂၆၃-ခုနှစ်။ (စာမျက်နှာ ၅–၁၁)။

*၂ ဦးတိလောက၏ အရိယာမဂ္ဂဒီပနီ။ ကဝိမျက်မှန်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၂–ခုနှစ်။ (စာမျက်နှာ–၂၂၂)။

*၃ ယင်း။ (စာမျက်နှာ–၂၂၂)။

*၄ ယင်း။ (စာမျက်နှာ–၂၂၂)။

ပေလိမ့်မည်။ ထိုနည်းတူပင် လယ်တီဆရာတော်ကြီးရေးသားသော အခြားကျမ်းဂန်စာပေတို့ကိုလည်း ထပ်မံ၍ ဖတ်ရှုလိုကြမည်မှာ ဧကန်ဖြစ်ချေသည်။ ဤနည်းဖြင့် လယ်တီဆရာတော်ကြီးသည် စာပေလောကဥ်တွင်ကျယ်ရန် အကြောင်းတစ်ရပ်ဖန်လာပြီဟုဆိုနိုင်သည်။

လယ်ဇင်ရွာနိဗ္ဗာန်တရားပွဲ

လယ်တီဆရာတော်ကြီးသည် လယ်ဇင်ရွာ ဓမ္မနန္ဒကျောင်းတွင် မိမိ၏ကျန်းမာရေးကို ဂရုပြုစောင့်ရှောက်တော်မူလျက် စာဝါပို့ချမှုနှင့် တရားဘာဝနာအားထုတ်မှုတို့ဖြင့် ထိုနှစ် ဝါတွင်းကာလအတွင်း သီတင်းသုံးနေစဉ် နှစ်လခန့်ကြာသော် တော်သလင်း(အေဒီ ၁၈၉၉-ခုနှစ်၊ စက်တင်ဘာလ)လတွင် ဆရာတော်ကြီး၏ကျန်းမာရေးအခြေအနေ များစွာတိုးတက်ကောင်းမွန်လာ၍ ဥပုသ်နေ့များတွင် ဆရာတော်ကြီးကိုယ်တော်တိုင် တရားဟောကြားတော်မူနိုင်ပြီဖြစ်ပါသည်။ လွန်ခဲ့သောဥပုသ်သီတင်းနေ့များက ဦးကိတ္တိဟောကြားခဲ့ပြီး ယခုသီတင်းနေ့များတွင် လယ်တီဆရာတော်ကြီးကိုယ်တော်တိုင် တရားဟောတော်မူလေရာ ဥပုသ်စောင့်လာသူနှင့် တရားနာပရိသတ် အထူးများလာ၍ ဥပုသ်ဇရပ်များပင်ထပ်မံဆောက်လုပ်ကြရသည်။

ထိုစဉ်က လယ်တီဆရာတော်ကြီးဟောသောတရားမှာ ဇာတ်၊နိပါတ်ဝတ္ထုတို့ကို အကြောင်းခံသောတရားမျိုးကိုမဟောကြားဘဲ အလွန်ကြားနာရခဲလှစွာသော နိဗ္ဗာန်ဆိုင်ရာသုတ္တန်ကြီးများကို လေးလေးနက်နက် ရှင်းလင်းဟောကြားတော်မူခဲ့ပါသည်။ ဤသို့ လယ်တီဆရာတော် ကြီး၏ နိဗ္ဗာန်ဆိုင်ရာတရားတော်ကို နာယူခွင့်ရခဲ့သူ ပုသိမ်မြို့ ရုံးအင်စပက်တော် ဒကာမောင်ကျော်စံနှင့် ဥပါသကာတစ်စုတို့က လယ်တီဆရာတော်ကြီးထံတော်သို့ အကြိမ်ကြိမ်*[၁] လာကြပြီး ထိုနိဗ္ဗာန်တရားတော်ကို စာဖြင့်စီရင်ရေးသားပေးတော်မူပါရန် လျှောက်ထားတောင်းပန်ခဲ့ကြသည်။ ဤသို့လျှင် 'နိဗ္ဗာန်စကား မြတ်တရားကို ကြားနာလိုလှ လွန်တောင့်တသောဓမ္မဆန္ဒနှင့် ပြည့်စုံကြပေကုန်သော သူတော်ကောင်းတို့၏ ချေချောင်ငံ အတန်တန်တောင်းပန်လျှောက်ထားသည်'ကို အကြောင်းပြု၍ လယ်တီဆရာတော်ကြီးသည် 'များစွာသောသုတ္တန်ပါဠိတော်တို့မှ ထုတ်နုတ်၍ နိဗ္ဗာနဒီပနီမည်သော နိဗ္ဗာန်ဆိုင်ရာရှင်းလင်းချက်'ကို လယ်ဇင်ရွာ ဓမ္မနန္ဒကျောင်း၌ ဝါကပ်ဆိုစဉ်အတွင်း ရေးသားတော်မူခဲ့ပါသည်။*[၂]

နိဗ္ဗာနဒီပနီ

နိဗ္ဗာန်-ဟူသောသဘာဝတရားသည် နက်နဲခြင်း-ဂမ္ဘီရ၊ သိမ်မွေ့ခြင်း-သုခုမ၊ မြင်နိုင်ခဲခြင်း-ဒုဒ္ဒသ၊ ထိုးထွင်း၍သိနိုင်ခဲခြင်း-ဒုရနုဗောဓ စသောဂုဏ်တို့ဖြင့်ပြည့်စုံရပေရာ၊ နိဗ္ဗာန်ကို

---

*[၁] လယ်တီဆရာတော်ကြီးထံ နိဗ္ဗာနဒီပနီရေးရန် တောင်းပန်လာကြသူတို့မှာ- (က) ၁၂၆၁-ခုနှစ်၊ တော်သလင်းလဆန်း ၆-ရက် (၉၊ ၉၊ ၁၈၉၉)တွင် မောင်ကျော်စံ၊ (ခ) တော်သလင်းလပြည့်ကျော် ၆-ရက် (၂၄၊ ၉၊ ၁၈၉၉)တွင် မုံရွာမြို့ အခွန်ဝန်မောင်လူကလေး၊ မုံရွာမြို့အုပ်မောင်ထွေး၊ မုံရွာမြို့အမိန့်တော်ရ မောင် ကြော့၊ (ဂ) တော်သလင်းလပြည့်ကျော် ၁၂-ရက် (၃၀၊ ၉၊ ၁၈၉၉)နေ့တွင် ဘုတလင်ဝန်ထောက်မောင်ရွှေ၊ ဗန်ကျီတိုက် ပလဲဝန်ထောက်မောင်အေး၊ ဆားလင်းကြီးမြို့အုပ်တို့ဖြစ်သည်။

*[၂] လယ်တီဆရာတော်ကြီး၏ နိဗ္ဗာနဒီပနီ။ ၁၉၅၁-ခုနှစ်။ (စာမျက်နှာ-၁၇၆)။

ပေါက်ပေါက်ရောက်ရောက် ပိုင်ပိုင်နိုင်နိုင် ထိုးထိုးထွင်းထွင်း သိမြင်နိုင်ဖို့အရေးမှာ အလွန်တရာမှ ခဲခက်လှပါသည်။ ရှေးရှေးအခါက နိဗ္ဗာန်တရားကိုရှင်းလင်းဖို့ကြိုးစားခဲ့ကြသော်လည်း တိကျနိုင်မာသော အဆုံးအဖြတ်မူတစ်ခုကိုကားမရရှိခဲ့ကြဘဲ မူကွဲအထွေထွေကိုသာရရှိခဲ့ကြပါသည်။

ဤသို့ ရှေးရှေးကပင် မူအမျိုးမျိုးကွဲပြား အယူအဆခြားနားနေခဲ့သော နိဗ္ဗာန်အယူအဆကို လယ်တီဆရာတော်ကြီး သုံးသပ်ဆင်ခြင်ပြသရာတွင် ကဏ္ဍသုံးရပ်ခွဲ၍ ရှင်းလင်းတော်မူခဲ့ပါသည်။ ယင်းတို့မှာ–

၁။ သင်္ခေပကဏ္ဍ– ဤကဏ္ဍတွင် ပါဠိပါဌ်သားအကိုးအကားမပါဘဲ သင်္ဂြိုဟ်ကျမ်းမှာလာရှိသည့်အတိုင်း မြန်မာသက်သက်နှင့် ကွက်ကွက်ကွင်းကွင်း ရှင်းလင်းစွာ သိသာထင်ရှားရုံမျှပြဆိုထားသည်။

၂။ ဝိတ္ထာရကဏ္ဍ– ဤကဏ္ဍတွင် ပါဠိတော်ရင်းသက်သက်ကို အနက်အဓိပ္ပာယ်နှင့်တကွ ပြဆိုထားသည်။

၃။ နာနာဂန္ထ နာနာဝါဒပဝိသောဓနကဏ္ဍ– ဤကဏ္ဍတွင် ကျမ်းဂန်ဝါဒအထူးထူး ယခုနောက်ဖြစ် အာစရိယဝါဒအထူးထူးတို့ကို ပြဆိုရှင်းလင်းပြထားသည်။[*၁]

လယ်တီဆရာတော်ကြီး၏ နိဗ္ဗာနဒီပနီကျမ်းသည် အကွက်ကောင်းများစွာပါဝင်သောကျမ်းဖြစ်ပြီး၊ ထိုအကွက်ကောင်းတို့ကို ထိုခေတ်က ကျမ်းတတ်ပညာရှင်တို့ မိမိတို့နှစ်သက်ရာ, သဘောကျရာကိုယူကြသည်လည်းရှိလေသည်။ ပမာအားဖြင့်သော် မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးကမူ ဤကျမ်း၌ပါရှိသော (က) နိဗ္ဗာန်၏သဉပါဒိသေသ၊ အနုပါဒိသေသနှစ်ပါးခွဲခြားပြပုံကို နှစ်သက်တော်မူသည်။[*၂] (ခ) ထို့ပြင် သုညတ, အနိမိတ္တ, အပ္ပဏိဟိတနိဗ္ဗာန်သုံးမျိုးအကြောင်း ခွဲခြားပြဆိုခန်းကိုလည်း နှစ်သက်တော်မူသည်။[*၃] (ဂ) ကိစ္စကြီးလေးပါးဖြင့် နိဗ္ဗာန်၏ပရမတ္ထအဖြစ်ကိုရှာသော အခန်းကိုလည်း နှစ်သက်တော်မူပါသည်။[*၄] (ဃ) နိဗ္ဗာန်၌ ပျော်ပျော်ပါးပါးခံစားရန် သုခရှိသည်ကိုထင်ရှားအောင် သန္တိသုခ, ဝေဒယိတသုခ နှစ်ပါးခွဲ၍ ပြဆိုသောအခန်းကိုလည်း နှစ်သက်တော်မူပါသည်။[*၅] (င) ပရိနိဗ္ဗာန်စံယူပြီးနောက် နိဗ္ဗာန်ရောက်သည့်အခါ ခံစားစံစားရပုံအခန်းတို့ကိုလည်း နှစ်သက်တော်မူလေရာ၊ ထိုနှစ်သက်သမျှကို မိမိပြုစုသော ဆိဒ္ဓပိဓာနနီကျမ်းတွင် ထည့်သွင်းဖော်ပြခဲ့ဖူးလေသည်။[*၆]

---

[*၁] လယ်တီဆရာတော်ကြီး၏ နိဗ္ဗာနဒီပနီ။ ၁၉၅၁–ခုနှစ်။ (စာမျက်နှာ–၂)။

[*၂] မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ ဆိဒ္ဓပိဓာနနီကျမ်း။ ပြည်ကြီးမဏ္ဍိုင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၂–ခုနှစ်။ (စာမျက်နှာ–၈၆)။

[*၃] ယင်း။ (စာမျက်နှာ–၉၁)။

[*၄] ယင်း။ (စာမျက်နှာ–၉၃)။

[*၅] ယင်း။ (စာမျက်နှာ–၉၉)။

[*၆] ယင်း။ (စာမျက်နှာ–၁၀၅)။

ဓမ္မနန္ဒကျောင်းကိုလွှဲအပ်ခြင်း

လယ်တီဆရာတော်ကြီးသည် သီတင်းဝါလကျွတ်ပြီးသည့်နောက် လယ်ဇင်ရွာ ဓမ္မနန္ဒကျောင်းမှ မုံရွာမြို့ လယ်တီကျောင်းတိုက်သို့ပြန်ကြွရန် အစီအစဉ်ပြုတော်မူပါသည်။ ထိုအခါ လယ်ဇင်ရွာ ဓမ္မနန္ဒကျောင်းကိုထိန်းသိမ်းစောင့်ရှောက်မည့်ကျောင်းဘုန်းကြီး လိုအပ်လာသည်။ ဆရာတော်ကြီးနှင့်အတူပါလာသောပုဂ္ဂိုလ်များကလည်း ကျောင်းဘုန်းကြီးမလုပ်လိုကြ၊ သို့နှင့် လယ်ဇင်ရွာ ဓမ္မနန္ဒကျောင်းနှင့်သင့်မြတ်သည့်ပုဂ္ဂိုလ်ကိုရှာဖွေရာ ကျောင်းဒကာနှင့်လည်းရင်းနှီးပြီးသားဖြစ်သော လယ်တီတိုက်အုပ်ဘုန်းကြီးဦးဇာဂရကို လယ်ဇင်ရွာ ဓမ္မနန္ဒကျောင်းဘုန်းကြီးအဖြစ်ထားရန် ဆရာတော်ကြီးဆုံးဖြတ်တော်မူခဲ့ပါသည်။

ထိုအချိန်၌ ဦးဇာဂရမှာ မိမိဇာတိ ကင်းစမ်းရွာ*၁ တွင် တောရဆောက်တည်နေစဉ်အခါဖြစ်သည်။ ကင်းစမ်းရွာမှာ လယ်တီဆရာတော်ကြီး၏ဇာတိစိုင်ပြင်ရွာမှ အနောက်တည့်တည့် နှစ်တိုင်(ယခု–လေးမိုင်)အကွာတွင်တည်ရှိသည်။ ဆရာတော်ကြီးက တိုက်ကြပ်ဘုန်းကြီးဦးဉာဏောဘာသနှင့် လယ်ဇင်ကျောင်းဒကာတို့ကို ကင်းစမ်းရွာသို့စေလွှတ်ပြီး ဦးဇာဂရကိုအပင့်ခိုင်းလိုက်ပါသည်။ ဦးဇာဂရခြေတော်ရင်းသို့ရောက်ရှိသော် ဆရာတော်ကြီးက 'မောင်ဇာဂရ ဒီကျောင်းမှာနေဗျု၊ ရွာကျောင်းဖြစ်သော်လည်း လယ်တီတောရမှာနေစဉ်အတိုင်း ဆွမ်းစဉ်ပရိတ်မလိုက်ဘဲ စာကိုသာကြိုးစားချ'ဟု မိန့်ဆိုကာ ဓမ္မနန္ဒကျောင်းကို ဝိနည်းကံနှင့်အညီ လွှဲအပ်တော်မူခဲ့ပါသည်။*၂ လယ်တီဆရာတော်ကြီးသည် လယ်ဇင်ရွာ ဓမ္မနန္ဒကျောင်းကို အရှင်ဇာဂရအားလွှဲအပ်ပြီးသည့်နောက်တွင် မုံရွာမြို့ လယ်တီတိုက်သို့ ပြန်လည်ကြွမြန်းတော်မူခဲ့ပါသည်။

ဥတ္တမပုရိသဒီပနီကျမ်း

သက္ကရာဇ် ၁၂၆၁–ခုနှစ်၊ တပေါင်းလဆန်း ၁၀–ရက် (အေဒီ–၉၊ မတ်လ၊ ၁၉၀၀–ပြည့်) နေ့တွင် မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးထံမှ မန္တလေးမြို့တွင် ဗုဒ္ဓဘာသာသာသနာပြုအသင်း*၃ ဖွဲ့စည်းရန်ပြင်ဆင်ထားကြောင်း၊ ထိုအသင်း၌ မိမိပါဝင်နေရကြောင်း၊ ယခု ထိုအသင်း၏

*၁ ကင်းစမ်းရွာမှာ ဘုတလင်မြို့နယ်၊ စစ်ကိုင်းတိုင်းအတွင်း တည်ရှိသည်။

*၂ အရှင်စာရိန္ဒ(ဓမ္မာစရိယ)၏ စစ်ကိုင်းတောင်အနောက်ပရက္ကမဆရာတော်ဖြစ်စဉ်နှင့်ကျင့်စဉ်များ။ ဂန္ထဝင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၈၂–ခုနှစ်။ (စာမျက်နှာ–၉၂)။ လယ်ဇင်ရွာ ဓမ္မိကာရာမကျောင်းသစ်တွင် (၁) လယ်တီဆရာတော်ကြီး၊ (၂) ဦးဇာဂရ၊ (၃) ဦးကဝိတို့ သီတင်းသုံးခဲ့ကြပြီးနောက်၊ ကျောင်းထိုင်ဘုန်းကြီးအဆက်ပြတ်ခဲ့ရာ၊ ယခု– (၄) ဦးပဏ္ဍိမှ တဖန် စ၍ကျောင်းထိုင်အုပ်ချုပ်လျက်ရှိပါသည်။

*၃ ဤအသင်းကို မန္တလေးမြို့တွင် ၁၂၆၁–ခုနှစ်၊ နှောင်းတန်ခူးလဆန်း ၈–ရက် (အေဒီ–၆၊ ဧပြီလ၊ ၁၉၀၀)တွင်မှ ဖွဲ့စည်းနိုင်ခဲ့သည်။ အသင်း၏ဥက္ကဋ္ဌမှာ ပညာအုပ်မင်းဦးကျော်ရန်(ရွှေလက်ဝါး)၊ ဒုတိယဥက္ကဋ္ဌမှာ ဦးခင်၊ အတွင်းရေးမှူးမှာ ဦးသော် ဖြစ်ကြသည်။ အသင်းအမည်ကို အင်္ဂလိပ်ဘာသာဖြင့် 'Mandalay Society for Promoting Buddhism'-ဖြစ်သည်။ ဤအသင်းမှ ဗုဒ္ဓဘာသာဝင်မြန်မာလူမျိုးတို့ ဗုဒ္ဓဘာသာအခြေခံအချက်အလက်တို့ကို သိနားလည်ကြစေရန် မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးပြင်ဆင်သည့် 'မင်္ဂလရှစ်ပါးတရားဒေသနာတော်' (အေဒီ–၁၉၀၁)၊ ဦးကျော်ရန် စီစဉ်သော 'သီလအဓိပ္ပာယ်လက်စွဲ' (အေဒီ–၁၉၀၁)၊ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးရေးသားသော 'ဂါထာမာတိကာဩဝါဒကထာ' (၁၉၀၁)–စသည့်စာအုပ်ငယ်များကိုပုံနှိပ်ဖြန့်ဝေခဲ့သည်။ မန္တလေးမြို့တွင် ဗုဒ္ဓဘာသာ သာသနာပြုအသင်းဖွဲ့စည်းတည်ထောင်ခြင်းအကြောင်းစာတမ်း။ (စာမျက်နှာ–၈၊ ၂၃)။

အကျိုးဆောင်မောင်သော်က ဗုဒ္ဓဘာသာဆိုင်ရာအချက်တို့ကိုသိလို၍ လယ်တီဆရာတော်အနေဖြင့် ဖြေရှင်းရေးသားပေးစေလိုကြောင်း–စသည်ဖြင့်ရေးသားထားတော်မူသော စာလွှာတစ်စောင် မုံရွာမြို့ လယ်တီဆရာတော်ကြီးထံသို့ရောက်ရှိလာပါသည်။ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏စာနှင့်အတူ ဗုဒ္ဓဘာသာသာသနာပြုအသင်း၏အကျိုးဆောင် အသင်းအတွင်းရေးမှူး ပညာရုံးစာရေးကြီး မောင်သော်၏ အမေးပုစ္ဆာစာလွှာလည်း တစ်ပါတည်းပါရှိလေသည်။

လယ်တီဆရာတော်ကြီးက ထိုစာလွှာတို့ကိုဖတ်ရှုပြီးနောက် မောင်သော်၏အမေးကို ဖြေကြားသောအားဖြင့် ဥတ္တမပုရိသဒီပနီအမည်ရှိသောကျမ်းကို အလျင်အမြန်ရေးသားတော်မူပါသည်။ လယ်တီဆရာတော်ကြီးသည် မြန်မာလူမျိုးများနိုးနိုးကြားကြား ဗုဒ္ဓသာသနာပြုစုဖို့ အတွက် အသင်းအဖွဲ့များဖွဲ့စည်းနိုင်ကြပြီဟူသောသတင်းစကားကြောင့် သာသနာအတွက် အားတက်တော်မူပါသည်။ ထို့ပြင် ဘာသာခြားများအား သာသနာပြုနိုင်ရေးအတွက် မိမိတို့ ကိုးကွယ်ဆည်းကပ်ရင်းဖြစ်သော ဗုဒ္ဓဘာသာသာသနာအကြောင်းကို အခြေအမြစ်ကျကျသိထားဖို့လိုပေရာ၊ ထိုသာသနာပြုလုပ်ငန်းကိုဆောင်ရွက်ကြမည့် မောင်သော်အပါအဝင် သာသနာပြု အသင်းသားတို့ဖတ်ရှုရန် ဗုဒ္ဓဘာသာအခြေခံအချက်အလက်တို့ကို ရေးသားပေးတော်မူပေးလို သောဆန္ဒတော်မှာလည်း အလွန်တိုးပွားလာခဲ့သည်။

သို့ရေးသားရာတွင် လယ်တီဆရာတော်ကြီးသည် မည်မျှဆန္ဒဖွဲ့ကြီးမားတော်မူသည်ကို ပြောစမှတ်ရှိသည်မှာ– တစ်ခါသော် ရေချိုးတော်မူနေစဉ် အလိုရှိသောစကားလုံးနှင့်စာသား ပေါ်လာ၍ ရေချိုးတော်မူရာမှ စာရေးနေရာသို့ကြွလာပြီး ရေစက်လက်ဖြင့် စာရေးတော်မူနေ ကြောင်းပင်ဖြစ်သည်။ ထို့ပြင် ဤကျမ်းစာကို ဆရာတော်ကြီးသည် ညအချိန်မှာလည်း အနား မနေဘဲ ဆက်လက်ရေးသားတော်မူရာ ညဦးအချိန်ကပင် တပည့်များက ဆရာတော်ကြီး ညဘက်တွင် အဆက်မပြတ်စာရေးတော်မူနိုင်ရန် ခဲတံများချွန်၍ပေးထားရသည်။ ထိုစဉ်က ခဲတံများစွာချွန်ပေးရသော ဦးရေဝတကိုပင် ခဲတံဝန်ဟု နောင်အခါပြောဆိုကြသည်။ ဤသို့ ဆရာတော်ကြီးညဘက်စာရေးရာ၌ ရေနံဆီမီးခွက်စသည်ထွန်းညှိ၍ရေးသားတော်မူပြီး၊ ရံခါ စာရေးကောင်းနေစဉ် ရေနံဆီကုန်သွား၍ဆီဖြည့်ရခြင်း၊ မီးစာကုန်ခြင်းစသည်ကြောင့် စာရေးပျက်လေရာ ဆရာတော်ကြီးက 'ဟေ့–မုဆိုးမအိမ်က ရေနံဆီမီးခွက်ကလေးလို တော်ကာ ရော်ကာ ကလေးကစားသကဲ့သို့ မလုပ်ကြစမ်းနှင့်'ဟုအမိန့်ရှိပြီး၊ ရေနံဆီအတော်များများဆန့်သော မီးခွက်ကြီးကြီးလုပ်စေ၍ မီးစာကိုလည်း ခဏခဏမလဲရစေရန် မီးစာကြီးကြီးတပ်ခိုင်းခဲ့သည် ဟုသိရသည်။*၁

လယ်တီဆရာတော်ကြီးသည် ဥတ္တမပုရိသဒီပနီကျမ်းကို ရေးသားတော်မူရာတွင် အခန်း (၉)ခန်းခွဲဝေ၍ ဗုဒ္ဓဘာသာကိုအခြေခံမှစ၍ရှင်းလင်းထုတ်ဖော်ပြတော်မူပါသည်။ ထိုကျမ်းရေးသား၍

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၇၁)။

ပြီးစီးသည်နှင့် ကဆုန်လဆန်း ၂–ရက် (အေဒီ–၂၉၊ ဧပြီလ၊ ၁၉၀၀)နေ့တွင် မောင်သော်ထံသို့ အောက်ဖော်ပြပါစာနှင့်အတူ ပေးပို့တော်မူခဲ့ပါသည်။

ကြားမှာလိုက်သည် မောင်သော်–

မောင်သော်လျှောက်လွှာသည် မန္တလေးမြို့ မဟာဝိသုဒ္ဓါရာမဆရာတော် မှာစာနှင့်တကွ (၁၂၆၁) တပေါင်းလဆန်း ၁၀–ရက်နေ့တွင်ရောက်လာသည်။

လျှောက်လွှာကိုကြည့်ရှုရာ သဘောအဓိပ္ပာယ်သံအထပ်ထပ်ပါရှိသည်တကြောင်း၊ ပွားများ၍နေထိုင်လိုပါသည်ပါရှိသည်တကြောင်း၊ အန္ဓပုထုဇန်အဖြစ်မှ လွတ်၍ ကလျာဏပုထုဇန်အဖြစ်သို့ရောက်လိုသံပါရှိသည်တကြောင်း။

အန္ဓပုထုဇန်ဆိုသည်ကား မျက်စိမရှိသော ပုထုဇန်ကိုဆိုလိုသည်။ မျက်စိသည်– (၁) ဒိဋ္ဌိဇုကမ္မသမ္မာဒိဋ္ဌိမျက်စိ၊ (၂) ပရိယတ္တိမျက်စိ၊ (၃) ဝိပဿနာသမ္မာဒိဋ္ဌိမျက်စိ၊ (၄) လောကုတ္တရာသမ္မာဒိဋ္ဌိမျက်စိ–ဟူ၍ မျက်စိ ၄–လုံးရှိသည်တွင် သာသနာပကာလ၌ ဒိဋ္ဌိဇုကမ္မသမ္မာဒိဋ္ဌိမျက်စိပေါက်၍ သီလ,သမာဓိရှိသောသူကို ကလျာဏပုထုဇန်ခေါ်ရသည်။

သာသနာတွင်း၌ကား ဒိဋ္ဌိဇုကမ္မသမ္မာဒိဋ္ဌိမျက်စိရှိရုံမျှနှင့် ကလျာဏပုထုဇန်မခေါ်လောက်သေး။ ပိဋကတ်ကျမ်းဂန် ကျေပွန်နှံ့စပ် စာပေတတ်သော ပရိယတ်မျက်စိပေါက်ရုံမျှနှင့်လည်း ကလျာဏပုထုဇန်မခေါ်လောက်သေး။ သက္ကာယဒိဋ္ဌိ, ဝိစိကိစ္ဆာခွာရှဲရာသော ဓာတုစက္ခု, ပစ္စယစက္ခုနှင့်တကွ ဝိပဿနာသမ္မာဒိဋ္ဌိမျက်စိပေါက်မှသာလျှင် ကလျာဏပုထုဇန်အမှန်ခေါ်ထိုက်သည်။

ထိုသူသည် ယခုဘဝ၌သော်လည်း လောကုတ္တရာသမ္မာဒိဋ္ဌိမျက်စိပေါက်ရောက်လတ္တံ့။ ဒုတိယဘဝ၌ နတ်ဖြစ်၍သော်လည်း ပေါက်ရောက်လတ္တံ့။ သာသနာပ၌ ပစ္စေကဗောဓိအဖြစ်နှင့်သော်လည်း ပေါက်ရောက်လတ္တံ့။ ဗောဓိအခြေအမြစ်စိုက်ပြီးဖြစ်၍ လူ့အဖြစ်, နတ်အဖြစ်နှင့်တွေ့ရာ ဘုရားသာသနာ၌သော်လည်း အလွန်လွယ်စွာကျွတ်နိုင်လတ္တံ့။ သာသနာတွင်း၌ ဤသို့သောသူသည်သာ အန္ဓပုထုဇန်အဖြစ်ကိုလွန်၍ ကလျာဏပုထုဇန်အဖြစ်သို့ရောက်သောသူ ဆိုစလောက်သည်။

ဒါန,သီလကောင်းခါမျှနှင့် ကလျာဏပုထုဇန်မဆိုလောက်သေး။ စာပေပရိယတ်တတ်ခါမျှနှင့် ကလျာဏပုထုဇန်မဆိုလောက်သေး။ ဤသို့ မမြောက်မမြင့်အဖြောင့်ဖွင့်သောကျမ်းဂန်ရိပ်ရှိသည်တကြောင်း၊ ဘာသာတပါးတို့ လှုပ်ချောက်ချားနိုင်စေခြင်းငှာ သိအပ်နလုံးသွင်းအပ်သောတရားဟု ပါရှိသည်တကြောင်း။ ယင်းအကြောင်းမှာလည်း ငါတို့မြန်မာလူမျိုးချင်းချင်းမှာ ကျမ်းသံဂန်သံနှင့်ပြောနိုင်လျှင်ပြီးတော့သည်။ ကိုယ်တွေ့မျက်မြင် အထင်အသိယုတ္တိသာခကေ မလိုလှ။ အင်္ဂလိက္ကိ, ဝိမံသီမိစ္ဆာဘာသာဝင်လူမျိုးတို့နှင့် ပြောဆိုရာ၌ကား ကျမ်းသံဂန်သံနှင့်မရ၊ ကိုယ်တွေ့မျက်မြင် အထင်အသိ ယုတ္တိသက်သေပြနိုင်မှ မလှုပ်ချောက်ချားနိုင်ရှိရာသည်။

သို့အတွက်ကြောင့်လည်းကောင်း၊ မဟာဝိသုဒ္ဓါရာမဆရာတော်အမိန့်စာမှာလည်း ဗုဒ္ဓဘာသာ သာသနာတော်အကျိုးစီးပွားနှင့်စပ်၍ မောင်သော်ကို အားရတော်မူသောအသံများစွာပါရှိသည်ဖြစ်၍လည်းကောင်း၊ သို့အကြောင်းများကြောင့် ခန္ဓဝဂ္ဂသံယုတ် သုတ္တန်ပါဠိတော်ကြီးကိုမူတည်၍ ဗုဒ္ဓဘာသာ သာသနာဝယ် နေရာကျလိုလှသောအချက်စု၌ မြန်မြန်ကြီးအရည်လယ်တည့်စေခြင်းငှာ မြန်မာစကားသက်သက်နှင့် အချက်ထိထိ ဉာဏ်မျက်စိကွင်းကွင်း အသိဉာဏ်လင်းလောက်အောင် နက်နဲခက်ခဲရာအရပ်စု၌ အထပ်ထပ်,အခါခါ ဥပမာ,ဥဒါဟရဏ်များနှင့်တကွ ဖော်ပြရေးသားလိုက်သည်။

ပါဠိပါဌ်သားမပါသည်ဟု မအောက်မေ့နှင့်၊ ပါဠိပါဌ်သားနှင့်ရေးလျှင် စကားစဉ်စကားဆက် ကွာ၍လှမ်း၍ ပြောတတ်ဟောတတ်ရှိရုံမျှကိုပင် အင်မတန်ကြီးကြရလိမ့်မည်။ ပြောဘို့ဟောဘို့ကို လိုရင်းမဟုတ်၊ မိမိကိုယ်မှာ ကလျာဏပုထုဇ္ဇန် ဉာဏ်မျက်စိတလုံးပေါက်မှုသည်သာ အမြွတ်ဖြစ်သည်။

အရေးအသားမှာမူရရုံမျှသာရှိချေသည်။[*၁] ရှင်းရှင်းလင်းလင်းမရှိဟု မအောက်မေ့နှင့်။ မြန်မြန်ကြည့်တည့်ရအောင် ညညကိုတွင်တွင်ရေးရသည့်အတွက် ရှင်းရှင်းလင်းလင်းရှိလေသည်။ ဤစာအုပ်ကို သူတစ်ပါးကိုလည်း မပြတည့်နှင့်ဦး။ သဘောသကန် နိုင်နင်းပြီးထင်မှ သူတစ်ပါးကို ပြလိုပြ, ပြောလိုပြော။ သဘောသကန်မကျေမလယ်ရှိသောအရာမှာ ဆရာတော်ကိုသာလျှောက်၊[*၂] သူတစ်ပါးကိုမလျှောက်တည့်နှင့်။

ရာဇဂြိုဟ်ဘုရင် ဗိမ္ဗိသာရမင်းကြီးက တက္ကသိုလ်ဘုရင် ပက္ကုသာတိမင်းထံ ဗုဒ္ဓဘာသာစာအုပ်လက်ဆောင် ဆက်ကမ်းလိုက်လေသောအခါ ပရိသတ်အလယ်မှာ မဖွင့်မကြည့်ပါလေလင့်ဟု မှာဖူးသောထုံးရှိသည်။ သဘောသကန်ထင်မြင်ရှင်းလင်းကြေလယ်ပြီးသည့်နောက် သူတစ်ပါးကိုပြောဟောရန်ကျမ်းဂန်ပါဠိပါဌ်သားအလိုရှိလျှင် ဘယ်နေရာမှာ ဘယ်အနက်မှာ ပါဠိရလိုပါသည်ဟု ဆရာတော်ထံလျှောက်၊ ငါတို့ထံသို့သော်လည်းစာထည့်။ မထင်မမြင်တည်နိုင်ဘဲ တွေဝေခုခံ၍နေသောအချက်တွေ့ရှိ၍နေလျှင်လည်း မြန်မြန်စာထည့်–။

လယ်တီဆရာတော်
ကဆုန်လဆန်း ၂–ရက်။[*၃]

---

[*၁] ဤနေရာ၌ 'အရေးအသား'ဆိုသည်မှာ 'လက်ရေး' ကိုဆိုလိုကြောင်း– ၁၉၀၇–ခုနှစ်ရိုက် ဥတ္တမပုရိသဒီပနီကျမ်း၊ အောက်ခြေမှတ်ချက်တွင် ဖော်ပြထားသည်။

[*၂] မဟာဝိသုဒ္ဓါရာမဆရာတော်ကြီးကိုဆိုလိုသည်။

[*၃] (၂၉၊ ဧပြီလ၊ ၁၉၀၀–ပြည့်နှစ်) ဖြစ်သည်။ လယ်တီဆရာတော်ကြီး၏ ဥတ္တမပုရိသဒီပနီကျမ်း။ ဟံသာဝတီသတင်းစာတိုက်၊ ရန်ကုန်မြို့။ ၁၉၀၇–ခုနှစ်။ (စာမျက်နှာ–၃)။

မောင်သော်ထံရေးသားသော လယ်တီဆရာတော်ကြီး၏စာကိုဖတ်ရှုကြရခြင်းဖြင့် လယ်တီဆရာတော်ကြီးက ဗုဒ္ဓဘာသာဝင်တို့အတွက် အရေးတကြီးလိုအပ်နေသောကိစ္စမှာ ဘာသာရေးဆိုင်ရာအခြေခံတရားတို့ကိုမသိမဖြစ် သိရှိကြရန်ဖြစ်ကြောင်းနှင့် ဗုဒ္ဓဘာသာစာပေကိုရေးသားကြရာတွင် အရပ်သူအရပ်သားများအတွက်ဆိုပါက ပါဠိပါဠ်သားမပါ စကားပြေသက်သက်ဆိုလိုရင်းအဓိပ္ပာယ်ပေါ်လွင်အောင်ရေးသားနိုင်ဖို့ အရေးကြီးသည့်ကိစ္စတစ်ရပ်ဖြစ်ကြောင်းတို့ကိုတွေ့ရှိကြပေလိမ့်မည်။ ဤအချက်နှစ်ချက်သည် သာသနာတော်တစ်ခေတ်ဆန်းချိန်၌ အလွန်လိုအပ်နေသောအချက်နှစ်ရပ်ဖြစ်လေရာ၊ ဤအချက်နှစ်ရပ်ကို မည်သည့်ပုဂ္ဂိုလ်ကမျှ ထုတ်ဖော်ပြသခြင်းမပြုသေးဘဲရှိရာ လယ်တီဆရာတော်ကြီးက ဦးစွာပထမထုတ်ဖော်မိန့်ကြားတော်မူလိုက်သည့်အတွက် ဤအချက်တို့နှင့်စပ်၍ လယ်တီဆရာတော်ကြီးအား နှစ်ဆယ်ရာစု၏ မြန်မာနိုင်ငံသာသနာရှေ့ဆောင် သာသနာပြုမဟာထေရ်ကြီးအဖြစ် အသိအမှတ်ပြုခဲ့ကြရပါတော့သည်။*၁

---

*၁ လယ်တီဆရာတော်ကြီး၏ လယ်တီဒီပနီပေါင်းချုပ်၊ ပဋ္ဌမတွဲ။ ဗုဒ္ဓသာသနာပြုအဖွဲ့၊ ရန်ကုန်မြို့။ ၁၉၆၆-ခုနှစ်။ (စာမျက်နှာ က-ဃ)။

## လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်

## [ဆဌမပိုင်း]

## ကျမ်းပြုအကျော် တောရပျော်ဆရာတော်ဘဝ

## (သက္ကရာဇ် ၁၂၆၂–သက္ကရာဇ် ၁၂၆၅)*၁

### ကျမ်းဂန်လည်းပြု, ကျင့်ဝတ်လည်းဖြည့်

လယ်တီဆရာတော်ကြီးက ဤခေတ်ဤအခါသည် သေလွယ်ပျောက်လွယ်သော ဝိပ္ပတ္တိကာလဖြစ်၍ အသက်ငါးဆယ်,ငါးဆယ့်ငါးနှစ်–စသည်တွင် စည်းစိမ်ဥစ္စာနှင့်ပြည့်စုံခံစားစံစားသော ဘောဂသမ္ပတ္တိနယ်ကို အဆုံးသတ်ရမည်။ ထိုမှနောက် ဘောဂသမ္ပတ္တိကိုစွန့်လွှတ်၍ ဘဝသမ္ပတ္တိစီးပွား ဗုဒ္ဓုပ္ပါဒ ဒုလ္လဘအကျိုးများကို အားထုတ်ရမည်'*၂ ဟု တစ်ပါးသူတို့အားထပ်ကာမနား ဟောပြောဆုံးမကာ တိုက်တွန်းတော်မူသကဲ့သို့ မိမိကိုယ်တော်တိုင်လည်း သက်တော်ငါးဆယ်နီးစအခါကပင် ကျောင်းကန်စသည်ကိုစွန့်၍ တောတောင်အရိပ်ကိုချဉ်းကပ်ခိုဝင်ကာ တရားဘာဝနာအလုပ်ကိုအားထုတ်ရန် ပြင်ဆင်တော်မူခဲ့ပြီဖြစ်သည်။

ဆရာတော်ကြီးကား တောအရပ်၌နေ၍ တရားဘာဝနာကိုပဓာနထား ကျင့်သုံးပြီးလျှင် ကျန်သောအချိန်ကာလတို့တွင် မိမိပြုစုလိုသောကျမ်းဂန်စာပေတို့ကိုပြုစုခြင်းဖြင့် အချိန်ကုန်လွန်ရန် လိုလားတော်မူခဲ့သည်။ ဤဆန္ဒနှစ်ရပ်ကား ယခုဤကာလများအတွင်း ပြည့်စုံလာခဲ့ပြီဟုဆိုရချေမည်။

သို့ပါ၍ ဤကာလအပိုင်းအခြားတွင် ဆရာတော်ကြီးသည် လူသူမနီး တောတောင်အထပ်ထပ်သို့ချဉ်းကာ တရားဘာဝနာအလုပ်ကို မဆုတ်မနစ် အားထုတ်နိုင်ခဲ့ပြီဖြစ်ကြောင်းနှင့် စာပေကျမ်းဂန်တို့ကိုလည်း စိတ်တိုင်းကျ ရေးသားတော်မူနိုင်ကြောင်းတို့ကို တွေ့ကြရပေမည်။

ဤသို့ တောတောင်အတွင်း၌နေထိုင်၍ ကျမ်းဂန်စာပေတို့ရေးသားတော်မူသည့်အခါတွင် တောတောင်အရပ်ဖြစ်သည့်အတိုင်း ပေစာ၊ စာအုပ်–စသည် အနီး၌များစွာမရှိသည့်အတွက် ထိုပေစာ၊ စာအုပ်စသည်တို့ကို အကိုးအကား

---

*၁ အေဒီ ၁၉၀၀–ပြည့်နှစ်၊ ဧပြီလမှ အေဒီ ၁၉၀၄–ခုနှစ်၊ ဧပြီလအထိ ဖြစ်သည်။

*၂ လယ်တီဆရာတော်ကြီး၏ အာနာပါနဒီပနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၂)။

များစွာမပြဘဲ မိမိအားထုတ်ဆဲဖြစ်သော ကိုယ်တွေ့တရားတို့ကို ထည့်သွင်းဖော်ပြရေးသားရခြင်းကြောင့် ကျမ်းစာဖတ်ရသူ၏စိတ်နှလုံး၌ ဆရာတော်ကြီး၏ဆိုလိုရင်းအာဘော်ကို ကွက်ကွက်ကွင်းကွင်း ထင်းခနဲလင်းခနဲရှင်းခနဲ မြင်ခွင့်ရကြတော့သည်။ ဆရာတော်ကြီးကလည်း မိမိတောတောင်အတွင်း၌ရေးသားသော ထိုကျမ်းစာအုပ်များနှင့်စပ်၍ တပည့်တို့အား မိန့်ကြားတော်မူလေ့ရှိသည်မှာ အောက်ပါအတိုင်းဖြစ်သည်။

'စာတိုက်ဗိုရိုနားတွင် စာရေးလျှင် စာတိုက်ဗီရိုတွင်ရှိသော ကျမ်းစာများကို ထုတ်ပြီး ကြည့်ရှုရေးသားရသောကြောင့် ပါဠိအကိုးအကားတွေနှင့် စာတိုက်သံ၊ ဗီရိုသံတွေများနေသဖြင့် လူပြိန်းတွေနားမလည်ကြချေ။ သို့အတွက် ငါတို့က တောထဲ၊ တောင်ထဲ၊ ချုံထဲမှာနေပြီးရေးသည်။ ငါတို့စာအုပ်တွေကတော့ တောသံ၊ တောင်သံ၊ ချုံသံတွေများသဖြင့် တောသူတောင်သား လူပြိန်းများနားလည်ကြတယ်၊ ကမ္မဋ္ဌာန်းအားထုတ်ရင်းရေးရသဖြင့် ကမ္မဋ္ဌာန်းသံတွေ များစွာပါရှိတယ်။ ငါတို့စီရင်ရေးသားအပ်သောကျမ်းစာအုပ်များကို ဖတ်နေလျှင် ကမ္မဋ္ဌာန်းအားထုတ်နေသလိုပဲကွဲ့' ဟူ၍ဖြစ်သည်။[*၁]

**ဝက်ရဲတောကြီး**[*၂]

ဝက်ရဲတောကြီးကို ဝက်ရဲရွာအနီး၌တည်ရှိသောကြောင့် ဝက်ရဲတော–ဟုခေါ်တွင်ခြင်းဖြစ်သော်လည်း စင်စစ်ဤဝက်ရဲတောကြီးသည် မဟာမြိုင်တောကြီးနှင့်တစ်ဆက်တည်း၌တည်ရှိသဖြင့် မဟာမြိုင်တောဟူ၍လည်းခေါ်နိုင်သည်။ မဟာမြိုင်တော[*၃]သည် တောင်မြောက်အားဖြင့် မိုင်သုံးလေးရာကျယ်ဝန်းပြီး စစ်ကိုင်းတိုင်း၏အနောက်ဘက်၌တည်ရှိသည်။ ဤမဟာမြိုင်တောကြီး၏ တောစပ်ပတ်ပတ်လည် အရှေ့နှင့်တောင်၊ မြောက်သုံးမျက်နှာတို့တွင် ကနီ၊ ဘုတလင်၊ တန့်ဆည်၊ ပင်လယ်ဘူး၊ ဖောင်းပြင်၊ မော်လိုက်၊ ကလေးဝ၊ မင်းကင်း–စသည်မြို့ကြီးများနှင့် ဝက်ရဲ၊ နှော–စသောကျေးရွာများစွာတို့က ဝန်းရံပတ်ကာတည်ရှိနေသည်။ အနောက်ဘက်တွင်ကား ချင်းတွင်းမြစ်ကြီးက ကာဆီးပေးထားသည်။

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၇၀)။

*၂ အရပ်က 'ဝရဲတော'ဟူ၍ခေါ်ဝေါ်ကြသည်။

*၃ မဟာမြိုင်တောကြီးတွင်း၌ ကလေးမြို့ကိုတည်ထောင်ခဲ့သည့် ရှေးမင်းဆက်များတွင်ပါဝင်သော ကိစ္စနမင်းသည် ကဒူး၊ ကစက်၊ သက်နှင့် ကွမ်းရည်လူမျိုးတို့ကို စုစည်း၍ မဟာဝုန်မြို့၊ အချို့က 'မဟာနန်မြို့'ဟူသောအမည်ဖြင့် မြို့သစ်တည်ခဲ့ဖူးပါသည်။ နောင်အခါ ထို 'မဟာဝုန်၊ မဟာနန်'မြို့ကို အခြားတစ်နေရာသို့ရွှေ့ပြောင်းသွားပြန်ရာ ထို 'မဟာဝုန်၊ မဟာနန်'ကို 'မဟာပြန်'ဟုခေါ်ကြသည်။ 'မဟာပြန်'ကိုမှ နောင်အခါ 'မဟာမြိုင်'ဟု ခေါ်တွင်ခဲ့ဟန်ရှိသည်။ စီးပွားရေးမြင့်ဦး၏ နှစ်တစ်ထောင်ပြည့် ကလေးမြို့(ဆောင်းပါး)။ သွေးသောက်မဂ္ဂဇင်း။ (စာမျက်နှာ ၁၄၁–၁၄၃)။ သို့ပါသော်မြန်မာဘာသာစကားအရပင် 'မဟာ' သည် 'ကြီးသော'၊ 'မြိုင်'ကား ပေါရာဏစကား၊ တောကြီးဟူသောအနက်ရှိပြီးဖြစ်ရာ ညိုမှုန်ခေါင်သောတောကြီးကို 'မဟာမြိုင်'ဟုခေါ်တွင်ခြင်းသည် အလွန်လိုက်ဖက်သင့်မြတ်လှပေသည်။



ဘုတလင်မြို့နယ်အတွင်း ဝက်ရဲတောရရှုခင်း



ဤဝက်ရဲတောရအတွင်း
လယ်တီဆရာတော်ကြီးနှင့်
ကြောင်ပန်းဆရာတော်တို့
တရားအားထုတ်သီတင်းသုံးရာဌာန
အထိမ်းအမှတ်ကျောက်တိုင်



ဝက်ရဲတောရအတွင်း လယ်တီဆရာတော်ကြီးနှင့်ကြောင်ပန်းကိုယ်တော်တို့
ထန်းတဲကလေးတစ်လုံးစီ၌သီတင်းသုံး၍ တရားအားထုတ်ခဲ့ကြပါသည်။

ဝက်ရဲတောသည် ဘုတလင်ဘက်မှ မဟာမြိုင်တောကြီးနှင့်ထိစပ်နေသောအစိတ်အပိုင်း တစ်ခုဖြစ်ပြီး၊ ဝက်ရဲတောအတွင်းဘက်သို့ဝင်သွားလျှင် တောကြီးနက်လာသည်နှင့် နောက်ဆုံး မဟာမြိုင်တောကြီးအတွင်းသို့ ရောက်မှန်းမသိရောက်ရှိသွားနိုင်ပါသည်။ မဟာမြိုင်တောကြီး၏ တောင်ဘက်အစွန်း၌တည်ရှိသော ဤဝက်ရဲတောကြီးသည် ဒီပဲယင်း၊ ဘုတလင်၊ ကနီနှင့် မင်းကင်း-လေးမြို့အကြား၌တည်ရှိသဖြင့် ဤဝက်ရဲတောကြီး၏ကျယ်ပြန့်နက်ရှိုင်းပုံကိုလည်း ခန့်မှန်းသိနိုင်လေသည်။ ထို့ပြင် မဟာမြိုင်တောကြီးတစ်ခွင်လုံးတွင်လည်း တောင်ဘက်အပိုင်း (ယခု-ဝက်ရဲတော) တွင်သာ တရားကျင့်ကြံအားထုတ်သူတို့ရှိခဲ့ဖူးကြောင်းနှင့် တောကြီး အခြား အစိတ်အပိုင်းတို့၌ တရားအားထုတ်သူတို့နေထိုင်ရန်ခဲယဉ်းလှကြောင်း ရေးသားကြပါသည်။*၁

ထိုစဉ်အခါ အရှင်ဣန္ဒကသည် ဝက်ရဲတောကြီးအတွင်း ကျွန်းပင်ကြီးတစ်ပင်၏အခြေ သစ်ခေါင်းအတွင်းနေ၍ နေပူမိုးရွာမရှောင်တရားအားထုတ်နေလေရာ၊ လယ်တီဆရာတော်ကြီး ဝက်ရဲတောကြီးအတွင်းရောက်ရှိတော်မူသောအခါ အရှင်ဣန္ဒကမှာ အဖျားပြင်းစွာတက်နေပြီး လူမှန်းမသိအောင်ဖြစ်နေခဲ့သည်။ လယ်တီဆရာတော်ကြီးသည် ဝက်ရဲတောကြီးအတွင်းရောက်ရှိ လျှင် ရက်သတ္တပတ်ခန့် အရှင်ဣန္ဒကအားပြုစုပြီး- ဝက်ရဲရွာ၊ ရုံခါ မင်းကန်ရွာ၊ အင်ကြင်းသပိ ရွာ၊ မောက်ကြက်ရွာ၊ တော်ဦးဘရွာ-စသည့်ရွာများသို့ နေ့စဉ်အလှည့်ကျဆွမ်းခံကြွ၍ ကျွေးမွေး စောင့်ရှောက်တော်မူခဲ့ရပါသည်။ အရှင်ဣန္ဒက ကျန်းမာရေးနှင့်ပြည့်စုံလာသည့်အခါ လယ်တီ ဆရာတော်ကြီးက-

> 'ဟေ့-မောင်ဣန္ဒက၊ နာမ်စိတ်ဟာ အလွန်ဆန်းကြယ်တာကလား၊ နာမ် သက်သက်ကို ရှုပွားဆင်ခြင်သောအခါ နာမပရိညာအလုပ်ကိုအားထုတ်ရာမှာ ပေါက်ခဲ,ပိုင်ခဲလှတယ်၊ နာမ်ကို မြင်နိုင်ခဲ,ဖမ်းနိုင်ခဲတယ်ကွဲ့'ဟု အမိန့်ရှိပါသည်။*၂

ထို့ပြင် အရှင်ဣန္ဒကအား နာမပရိညာဝိပဿနာအလုပ်ကို နည်းပေးပြသ၍ အားထုတ် စေခဲ့ပါသည်။*၃ ဝက်ရဲတောအတွင်း လယ်တီဆရာတော်ကြီးသီတင်းသုံးရန် ဝက်ရဲရွာမှ ဦးဘိုးချို၊ ဒေါ်ဖဲဘီတို့က တဲကျောင်းကလေးတစ်ဆောင် ဆောက်လုပ်လှူဒါန်းကြပါသည်။ ထို့ပြင် ဆရာတော်ကြီးသီတင်းသုံးရာဌာနတွင် ဆင်များလာတတ်၍ သစ်ပင်ကြီးငယ်ပတ်လည်စိုက်၍ ကာရံပေးထားသည်။ လယ်တီဆရာတော်ကြီးသည် နေ့ညမဟူကျိန်းစက်တော်မမူဘဲ တစ်ကိုယ် တည်း တရားဘာဝနာကိုသာပြင်းစွာအားထုတ်တော်မူလေရာ၊ လယ်တီဦးဝဏ္ဏိတက နောင်သော အခါ လယ်တီဆရာတော်ကြီး ဝက်ရဲတောရအတွင်း၌ တရားအားထုတ်ပုံတို့ကို အောက်ပါအတိုင်း မှတ်တမ်းတင်ရေးသားခဲ့ပါသည်။

---

*၁ ဦးဥတ္တမသာရ၏ မေတ္တာခရီးသည်ကြီး၊ ပထမပိုင်း။ ဗုဒ္ဓအသံစာပေ၊ ရန်ကုန်မြို့။ ၁၉၉၀-ပြည့်နှစ်။ (စာမျက်နှာ-၃၃၁)။

*၂ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ-၂၈၉)။

*၃ ဝက်ရဲတောရအတွင်းရှိ လယ်တီ-ကြောင်ပန်းကျောက်တိုင်ကြီးသမိုင်းအကျဉ်းချုပ်မှ။

ထိုမဟာမြိုင်တောကြီး၌ ထိန,မိဒ္ဓကိုနိုင်နင်းအောင်အားထုတ်တော်မူပုံမှာ–

တစ်ညဥ့်လုံး အိပ်မှုက္ကရိယာပုထ်ကြီးဖြင့်အချိန်ဖြုန်းခြင်းသည် ကိုယ့်ကျိုးကိုယ့်စီးပွားမဖြစ်၍ နစ်နာလှ၏၊ ငါသည် ဤအိပ်မှုက္ကရိယာပုထ်ကြီးကို နိုင်နင်းအောင် ဖျက်ဆီး၍ပစ်အံ့–ဟု တစ်ညဥ့်လုံးမအိပ်ဘဲ မိုးလင်း၍ ကုလားတက်ကြီးခေါက်မှ နံရံကိုမှီ၍ မတ်ရပ်ဖြင့် အတန်ငယ်မှိုကာမျှသောအိပ်ခြင်းဖြင့် အိပ်ပြီးလျှင်ဆွမ်းခံတော်မူသည်။ ဤသို့ချည်း နေ့ရောညဥ့်ရောမအိပ်ဘဲ တစ်ဝါတွင်းပတ်လုံးအပင်အပန်းခံ၍အားထုတ်တော်မူသည်–ဟူ၍ဖြစ်ပါသည်။*၁

**ပဋ္ဌာန်းသတိမဝါ ဆိုတော်မူခြင်း**

လယ်တီဆရာတော်ကြီးသည် တပည့်ရှင်ကုန္ဒကဏ၏ပင့်လျှောက်ချက်အရ မဟာမြိုင်တောကြီးအစပ်၌တည်ရှိသော ဝက်ရဲတောကြီးအတွင်းရောက်ရှိသီတင်းသုံးလျက် တရားဘာဝနာအလုပ်ကိုကြိုးပမ်းအားထုတ်တော်မူနေရာ၊ ထို သက္ကရာဇ် ၁၂၆၂–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၉၀၀–ပြည့်နှစ်၊ ဇူလိုင်လ) တွင် ဝက်ရဲတောကြီးအတွင်းမှာပင် (၃၅)ကြိမ်မြောက် ပဋ္ဌာန်းသတိမဝါကိုကပ်ဆိုတော်မူခဲ့ပါသည်။

**လယ်တီဆရာတော်ကြီးကျန်းမာရေးထိခိုက်ခြင်း**

လယ်တီဆရာတော်ကြီးနှင့် တပည့်ရှင်ကုန္ဒကတို့ တစ်ဝါတွင်းလုံး လွန်စွာအပင်ပန်းခံ၍ တရားဘာဝနာအလုပ်ကိုအားထုတ်နေစဉ် ဝက်ရဲ၊ ရွာမွန်၊ ကူတော်၊ မောင်းထောင် စသောရွာများက ဝက်ရဲတောကြီးအတွင်း ထင်းခုတ်,ပျားဖွတ်လာကြသောရွာသားတို့သည် လယ်တီဆရာတော်သီတင်းသုံးသော တဲကျောင်းမှ ညအခါအရောင်ဝင်းဝင်းဝါဝါများတွေ့ရကြောင်း၊ ဆရာတော်ကြီး ရွာအတွင်းဆွမ်းခံကြွလာလျှင် မြေပြင်နှင့်ခြေတို့မထိကြောင်း– စသည်ဖြင့်အုတ်အာသောင်းသဲပြောဆိုကြသည်။ ဆရာတော်ကြီးကား ဤသို့ပြောကြားနေပုံအကြောင်းတို့ကိုလုံးဝသိတော်မူခြင်းမရှိခဲ့ပေ။

ထိုဝက်ရဲတောကြီးအတွင်း အစားအသောက်ဆင်းရဲခြင်း၊ ရာသီဥတုပြင်းထန်ဆိုးရွားမှုတို့ကြောင့် ဝါမကျွတ်မီ တော်သလင်းလကုန်ခန့် (အေဒီ ၁၉၀၀–ပြည့်နှစ်၊ဩဂုတ်လ)တွင် လယ်တီဆရာတော်ကြီး၏ကျန်းမာရေး ထိခိုက်တော်မူခဲ့သည်။ ထို့ကြောင့် ဝါကျွတ်လျှင်ပင် လယ်တီဆရာတော်ကြီးနှင့်တပည့်ရှင်ကုန္ဒကတို့ ဘုတလင်ရွာသို့ကြွတော်မူခဲ့ကြပြီး မိမိတို့၏ရောဂါဝေဒနာတို့ကို ဆေးဆရာနှင့်ကုသခဲ့ကြရသည်။ ဤသို့ဆရာတော်ကြီးနာမကျန်းဖြစ်သည့်သတင်းသည်

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၄၄)။

မုံရွာမြို့သို့ရောက်ရှိသွားရာ မုံရွာမှတပည့်များ ချက်ချင်းလိုက်လာကြပြီး ဆရာတော်ကြီးအား မုံရွာသို့ပြန်ကြွတော်မူပါရန် ဖွတ်အတင်းပင့်ဆောင်ကြတော့သည်။*၁

## မုံရွာသို့ပြန်ကြွတော်မူခြင်း

လယ်တီဆရာတော်ကြီးသည် ဝက်ရဲတောကြီးမှပြန်ကြွသည့်အခါ ရွာမွန်ရွာအရှေ့ဘက်ရှိ ဘုန်းတူဘုရား*၂ ကို ဝင်ရောက်ဖူးမြော်ပြီး၊ ကင်းစမ်းရွာ ကုန်းသာကျောင်းမြောက်ဘက်တွင် တဲကျောင်းကြီးထိုး၍ ထိုနေရာ၌ ခေတ္တအနားယူကျိန်းစက်တော်မူခဲ့ပါသည်။*၃ ကင်းစမ်းရွာ၌ ခေတ္တသီတင်းသုံးနေစဉ် ဇာတကပါဠိတော်လာ ဘိသဇာတ်(ဇာ၊၁၊၂၈၅။ ဇာ၊၄၊၄၊၃၀၄၊)ကိုလည်း အကျယ်ချဲ့ထွင်ဟောကြားတော်မူပါသည်။*၄ ထို့ပြင် ကင်းစမ်းရွာဇာတိ ပထမပြန်အရှင်တေဇိန္ဒ*၅ နှင့်တွေ့ဆုံကာ စာပေအကြောင်းဆွေးနွေးတော်မူပါသည်။ ပြီးလျှင် ကင်းစမ်းရွာမှ ဆယ်ကြီးရွာကိုဖြတ်၍ ဇာတိစိုင်ပြင်ရွာသို့ကြွတော်မူပြန်ပါသည်။*၆

ထိုစဉ်အခါက လယ်တီဆရာတော်ကြီးသည် မိမိဇာတိရပ်ရွာ စိုင်ပြင်နှင့်မကွာဝေးလှသော အုတ်ဖိုတောင်ခြေ၌တည်ရှိသည့် လက်ပံရွာကလေး*၇ တွင် အလွန်ထူးခြားသော ရဟန်းယောဂီပုဂ္ဂိုလ်တစ်ပါးရှိသည်ဟု သတင်းကြားသဖြင့် ကြွရောက်တော်မူခဲ့ပါသည်။ လက်ပံရွာကလေး၏ ဥပစာအလွန်၌ လက်ပံတောရတည်ရှိ၏။ ထိုလက်ပံတောရ၌ တောရဆောက်တည်နေသော အရှင်အာဒိစ္စ*၈ နှင့်တွေ့ဆုံခဲ့ပါသည်။ အရှင်အာဒိစ္စသည် ပကိဏ္ဏကဝိသဇ္ဇနာကျမ်းပြု လုံးတော်

---

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ-၁၂၈)။ ဝက်ရဲတောရကြီးအတွင်း လယ်တီဆရာတော်ကြီးနှင့် ကြောင်ပန်းဆရာတော်ကြီးတို့ အတူတရားအားထုတ်ရာဌာနတွင် နောင်အခါ ဝက်ရဲရွာ ဓမ္မရက္ခိတာရာမကျောင်းဆရာတော်ဦးဥတ္တမကိုအမှူးထား၍ ဝက်ရဲရွာ ဒကာ, ဒကာမတို့စုပေါင်းအလှူငွေဖြင့် သမိုင်းဝင် 'လယ်တီ-ကြောင်ပန်းကျောက်တိုင်ကြီး' ကို ၁၃၂၇-ခုနှစ်၊ တပေါင်းလပြည့်ကျော် ၁၅-ရက် (အေဒီ-၂၁၊ မတ်လ၊ ၁၉၆၆-ခုနှစ်)တွင် စိုက်ထူထားရှိပါသည်။

*၂ ဤဘုရားသည် ဘုတလင်မြို့နယ် ရွာမွန်ရွာအရှေ့ဘက်တွင်ရှိ၍ အင်္ဂလိပ်ခေတ်က နှစ်စဉ် တော်သလင်းလဆန်း(၈)ရက်မှ လဆန်း(၁၂)ရက်နေ့အထိဘုရားပွဲကျင်းပခဲ့သည်။မုံရွာစန်းမောင်၏ ထူးခြားအံ့ဖွယ်ဗဒုံနယ်။၂၀၀၆-ခုနှစ်။(စာမျက်နှာ-၆၉)။

*၃ အရှင်စာရိန္ဒ၏ အနောက်ပရက္ကမဆရာတော်၏ဖြစ်စဉ်နှင့်ကျင့်စဉ်များ။ ၁၉၈၂-ခုနှစ်။ (စာမျက်နှာ-၆၂)။

*၄ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ-၁၂၉)။

*၅ သီပေါမင်းသားဘဝ စာပြန်စဉ်က အတူစာပြန်ခဲ့သောပုဂ္ဂိုလ်ဖြစ်သည်။

*၆ အရှင်စာရိန္ဒ၏ အနောက်ပရက္ကမဆရာတော်၏ဖြစ်စဉ်နှင့်ကျင့်စဉ်များ။ ၁၉၈၂-ခုနှစ်။ (စာမျက်နှာ-၆၂)။

*၇ လက်ပံရွာသည် စစ်ကိုင်းတိုင်း၊ မုံရွာခရိုင်၊ ဘုတလင်မြို့နယ်အတွင်းတည်ရှိသည်။ လက်ပံရွာသည် ယခုအခါ အရှေ့ရွာ၊ မြောက်ရွာနှင့် တောင်ရွာဟု လက်ပံသုံးရွာရှိနေ၏။

*၈ အရှင်အာဒိစ္စသည်ကား ယောဂီပါရဂူစသောကျမ်းများကိုပြုစုသော ကန္နီရွှေသိမ်တော်တောရဆရာတော်၏ဆရာရင်းဖြစ်၏။ အရှင်အာဒိစ္စအကြောင်းကို ဓမ္မာစရိယဦးဌေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ။ ၁၉၈၉-ခုနှစ်။ (စာမျက်နှာ-၁၈၇)နှင့် ဦးသာသနသုဒ္ဓိ၏ မြန်မာနိုင်ငံတော်ရဟန္တာအရိယာများ၏ ထေရုပ္ပတ္တိ။ (စာမျက်နှာ-၃၄၉)တို့၌ရှုပါ။

ဘုတလင်မြို့နယ်၊ အုတ်ဖိုတောင်ခြေ လက်ပံရွာရှိ အရှင်အာဒိစ္စ၏တောရကျောင်း






အုတ်ဖိုလက်ပံတောရကျောင်းအတွင်းရှိ တရားထိုင်ရာဂူနှင့်ကျောက်စာ

ဆရာတော်အရှင်ဂုဏာဝါ[*၁] ၏တပည့်အနွယ်အဆက်ဖြစ်ပြီး ပဋိပတ်လုပ်ငန်းကိုသာ တစိုက်မတ်မတ် အားထုတ်တော်နေသော အရည်ဝါသီပုဂ္ဂိုလ်တစ်ဦးလည်းဖြစ်၏။[*၂]

လယ်တီဆရာတော်ကြီးနှင့် အရှင်အာဒိစ္စတို့တွေ့ဆုံကြသောအခါ၌ ပဋိပတ်လုပ်ငန်းတို့ကို ဆွေးနွေးတော်မူကြပါသည်။ အယူအဆတူမျှတော်မူကြသဖြင့် ဆွေးနွေး၍အားမရနိုင်အောင် ဖြစ်တော်မူကြ၏။ အရှင်အာဒိစ္စသည် လယ်တီဆရာတော်ကြီးအောက် ဝါအနည်းငယ် ငယ်ပေသည်။ အရှင်အာဒိစ္စပြောကြားသောကိုယ်တွေ့တရားများကိုကြားသိရသော် အလွန်ထူးသော တရားများပေတကားဟု အလွန်နှစ်သက်ခဲ့ပြီး လယ်တီဆရာတော်ကြီးသည် အရှင်အာဒိစ္စကို အထပ်ထပ်ချီးမွမ်းတော်မူခဲ့လေသည်။[*၃]

လယ်တီဆရာတော်ကြီးသည် အုတ်ဖိုလက်ပံရွာမှတစ်ဆင့် စိုင်ပြင်ရွာသို့ကြွတော်မူခဲ့ပြီး၊ စိုင်ပြင်ရွာသို့ရောက်ရှိတော်မူလျှင် ဖျောက်ဆိပ်ပင်ကျောင်း၌ခေတ္တသီတင်းသုံးတော်မူခဲ့ပါသည်။ စိုင်ပြင်ရွာ၌သီတင်းသုံးနေတော်မူစဉ်အတွင်း စိုင်ပြင်ရွာအနောက်မြောက်ပိုင်းရှိ ကန်လည်ကျောင်း[*၄] နေရာရှေ့ ကုက္ကိုပင်ကြီးအောက်တွင် ဆွေတော်မျိုးတော်ရွာသူရွာသားတို့အား တရားဓမ္မဟောကြားတော်မူခဲ့ပါသည်။ ထိုတရားပွဲ၌ စိုင်ပြင်တောင်ရွာသားတစ်ဦးသည် လယ်တီဆရာတော်ကြီး၏ တရားပွဲ၌ တရားနာရင်း သံဝေဂတရားဖြစ်ပွားကာ ထိုတရားပွဲပြီးလျှင်ပင် လူဝတ်စွန့်၍ သာသနာ့ဘောင်သို့ဝင်ရောက်ခဲ့သည်။ ဘွဲ့မည်မှာ ဦးနန္ဒိယဖြစ်ပြီး နောင်အခါ ဝိပဿနာအရာ၌ အလွန်ကျော်ကြားသောပုဂ္ဂိုလ်တစ်ဦးဖြစ်ခဲ့သည်။[*၅]

ထို့ပြင် လယ်တီဆရာတော်ကြီးသည် စိုင်ပြင်ရွာ၌ခေတ္တသီတင်းသုံးနေစဉ်တွင် စိုင်ပြင်ရွာတောင်ဘက် အိမ်ယာရွာ၊ သရက်ကောင်းရွာနှင့် ရွာရှည်ရွာ–ခေါ် သုံးရွာအကြား တောင်ကုန်းငယ်တစ်ခုပေါ်သို့ကြွရောက်၍တရားအားထုတ်နေတော်မူလေရာ၊ ထိုနေရာတွင် ရွာသားများက

---

*၁ လုံးတော်ဆရာတော်အရှင်ဂုဏာဝါသည် ဒီပဲယင်းမြို့၌ဖွားမြင်၍၊ ရတနာသိယ်(ရွှေဘို)မြို့ ပလိုင်းရွာမ၌သီတင်းသုံးသည်။ မင်းတုန်းမင်းကြီး တိုက်တာသီးခြားဖြင့် ကိုးကွယ်ကြောင်းနှင့် ဂုဏာဝါဘိလင်္ကာရသဒ္ဓမ္မဇောတိကမဟာဓမ္မရာဇဂုရု–တံဆိပ်ဆက်ကြောင်းသိရသည်။ သီပေါမင်းလက်ထက်တိုင်ထင်ရှားခဲ့သည်။ သက္ကရာဇ်–၁၂၀၀ (အေဒီ–၁၈၃၈)ခုနှစ်နောက်ပိုင်း၌ ဘဝနတ်ထံစံလွန်ပါသည်။ လှသမိန်၏ ဂန္ထဝင်ပုဂ္ဂိုလ်ကျော်များအတ္ထုပ္ပတ္တိ။ ၁၉၆၁–ခုနှစ်။ (စာမျက်နှာ–၁၀၈)။

*၂ ဓမ္မာစရိယဦးဌေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၁၈၇)။

*၃ အုတ်ဖို လက်ပံတောရအတွင်း၌ လယ်တီဆရာတော်ကြီးရောက်ရှိ၍ ခေတ္တသီတင်းသုံးခဲ့သည်ဟု အမှတ်အသားရှိသော အုတ်ဂူငယ်တစ်ခုပင်ရှိခဲ့သည်။ ထိုလက်ပံတောရကျောင်းတွင် အရှင်အာဒိစ္စနောက် ဦးဝိမလ၊ ဦးဣန္ဒာစက္က၊ ဦးကောဝိဒ၊ ဦးကေလာသ၊ အရှင်ဝိစိတ္တ–စသည်ဖြင့် အစဉ်အဆက်သီတင်းသုံးခဲ့ကြသည်။ မြေဇင်းတောရဆရာတော်၏ ဒဿနပါရဂူကျမ်း။ ၂၀၀၃–ခုနှစ်။ (စာမျက်နှာ–ည)ကိုလည်းရှုပါ။

*၄ ထိုစဉ်က ကန်လည်ကျောင်းမဖြစ်သေးပေ။ ကန်လည်ကျောင်းမှာ သက္ကရာဇ် ၁၂၇၉–ခုနှစ်၊ နယုန်လ(အေဒီ ၁၉၆၇–ခုနှစ်၊ ဇွန်လ)တွင် စတင်ဆောက်လုပ်၍ ကန်လည်ပထမဆရာတော်ဦးတေဇာဘိဝံသကိုလှူဒါန်းကြောင်း မှတ်တမ်းရှိသည်။ လယ်ဘီဝံသအရှင်ကောဝိဒ၏ ကန်လည်ကျောင်းတိုက်ဖြစ်စဉ်သမိုင်း။ ၂၀၀၅–ခုနှစ်။ (စာမျက်နှာ–၃)။

*၅ ဤအဖြစ်အပျက်ကို စိုင်ပြင်ရွာ ကျောင်းမကျောင်းဆရာတော် ဦးဓမ္မပါလ (၈၊ ၁၂၊ ၁၉၉၇)နေ့က မိန့်ကြားခြင်းဖြစ်ပါသည်။ ထိုအရှင်နန္ဒိယသည်ပင် နောင်အခါ သဲဖြူလယ်တီတောရဦးနန္ဒိယ–ဖြစ်သည်ဟုလည်း မိန့်ကြားပါသည်။

လယ်တီဆရာတော်ကြီးတရားဟောတော်မူသော စိုင်ပြင်ရွာရှိ ကန်လယ်ကျောင်းအဝင်ဝ



လယ်တီဆရာတော်ကြီးတရားအားထုတ်တော်မူသော စိုင်ပြင်ရွာတောင်ဘက်ရှိ လယ်တီတောရ

ကိုးတောင်ပြည့်စေတီနှင့် အုတ်လိုဏ်ငယ်တစ်ခုကိုပြုပြင်လှူဒါန်းထားခဲ့ကြပါသည်။*၁ လယ်တီဆရာတော်ကြီးသည် စိုင်ပြင်ရွာတွင် ၁၂၆၂–ခုနှစ်ကုန်လုတိုင် တစ်ဆောင်းတွင်းလုံးသီတင်းသုံးနေတော်မူပြီးနောက် ပြာသိုလသို့ရောက်မှ မုံရွာမြို့ လယ်တီတောရတိုက်သို့ပြန်လည်ကြွမြန်းတော်မူခဲ့ပါသည်။

## ပရမတ္ထဒီပနီကျမ်းစာပေါ်ထွက်လာခြင်း

သက္ကရာဇ် ၁၂၆၂–ခုနှစ်နှောင်းပိုင်း တပို့တွဲလ (အေဒီ ၁၉၀၁–ခုနှစ်၊ ဇန်နဝါရီ/ဖေဖော်ဝါရီလ)တွင် ရန်ကုန်မြို့၊ စာဆိုတန်း၊ ၂၅–လမ်း၊ တိုက်အမှတ်–၄၆ ရှိ ကဝိမျက်မှန်ပုံနှိပ်တိုက်က လယ်တီဆရာတော်ကြီး၏ပရမတ္ထဒီပနီပါဠိကျမ်းကို ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။

ဤကျမ်းကို လယ်တီဆရာတော်ကြီး မန္တလေးမြို့ စံကျောင်း၌နေစဉ် စာချဘုန်းကြီးဘဝက ပင် အချက်အလက်များစုဆောင်းခဲ့ပြီး၊ မုံရွာမြို့ လယ်တီတောရကိုတည်ထောင်ပြီးသည့်နောက် သက္ကရာဇ်–၁၂၅၉ (အေဒီ–၁၈၉၇)ခုနှစ်တွင် ရေးသားခဲ့ခြင်းဖြစ်သည်။ ပရမတ္ထဒီပနီပါဠိ ပုံနှိပ်ကျမ်းတွင် လယ်တီဆရာတော်ကြီး၏ဘွဲ့အမည်ကို အထူးတလည်နေရာပေး၍ပုံနှိပ်ဖော်ပြထားသည်။ စာအုပ်၏ရှေ့မျက်နှာဖုံးတွင် 'တိပိဋကကျမ်း,သဒ္ဒါဗျာကရဏ်းကျမ်း,ဂန္ထန္တရကျမ်းတို့၌ သူမတူတန် နက်နဲလျှင်မြန်အမြင်သန်သည့်ဉာဏ်စွမ်းသတ္တိရှိတော်မူသော မုံရွာလယ်တီတောရဆရာတော်'–ဟူ၍ဖော်ပြထားခြင်းဖြစ်သည်။ ထို့ပြင် ပရမတ္ထဒီပနီပါဠိကျမ်းနှင့်စပ်၍ ဖော်ပြရာတွင်လည်း 'အဘိဓမ္မာဉာဏ် ထက်သန်ပြန့်ပြူး အထူးပွင့်လင်းကြစေခြင်းငှာ အဘိဓမ္မာသုတ္တန် အထူးထူးသောကျမ်းဂန်တို့နှင့်သဘောသကန်ယုတ္တိ နှိုင်းညှိစီရင်တော်မူအပ်သဖြင့် ကောင်းမြတ်သန့်ရှင်း ထင်လင်းသိလျော် အလွန်ပေါ်သောပရမတ္ထဒီပနီပါဠိ'ဟုဖော်ပြထားပြန်ပါသည်။

ဤသို့ ပရမတ္ထဒီပနီကျမ်း စာပုံနှိပ်မူစာအုပ်အဖြစ်ဖြင့်ထွက်ပေါ်လာသောအခါ ပါဠိစာပေနှင့် အဘိဓမ္မာဘာသာရပ်ကို လေ့လာလိုက်စားသောပုဂ္ဂိုလ်တို့ပေါ်များသော ခေတ်ကာလဖြစ်သည့် အတိုင်း နိုင်ငံအဝှန်း ရဟန်းရှင်လူလောကတွင် 'မုံရွာလယ်တီတောရဆရာတော်' ဟူသော အမည်သည် ဟိုးဟိုးကျော်လေတော့သည်။ ကျော်ရသောအကြောင်းမှာ 'သာသနာတော်တစ်ခုလုံးက တလေးတစားအသုံးပြုသင်ကြားပို့ချနေသော ဋီကာကျော်နှင့်မဏိမဉ္ဇူကျမ်းတို့ကို မုံရွာလယ်တီတောရဆရာတော်ကပယ်သတဲ့'–ဟူသောအကြောင်းကြောင့် ကျော်ကြားခြင်းမျိုးဖြစ်သည်။*၂ ပရမတ္ထဒီပနီပါဠိသည် ပါဠိဘာသာဖြင့်ရေးသားထားသော်လည်း ထိုခေတ်အခါက ပါဠိဘာသာကိုဖတ်ရှုနိုင်သော ရဟန်းရှင်လူများစွာရှိသေးသည့်အလျောက် ဤစာအုပ်ကိုဝယ်ယူဖတ်ရှုကြသည်။ ဖတ်ရှုပြီးသော် ကြိုက်သူလည်းရှိသကဲ့သို့ မကြိုက်သူတို့လည်း ပေါ်ထွန်းလာလေသည်။

---

*၁ ထိုနေရာကို ယခု လယ်တီကမ္မဋ္ဌာန်းကုန်း၊ လယ်တီတောရ–ဟုခေါ်တွင်ပြီး၊ စိုင်ပြင်ရွာတောင်ဘက် မဟာလေ့ခါးတောရ (ယခု–လယ်တီဝံသကျောင်း)၏ အရှေ့မြောက်ထောင့်အရပ်တွင်ရှိသည်။ ထိုနေရာ၌ သိမ်တိုင်အချို့နှင့် ကျောက်စာတစ်ချပ်ကိုလည်းတွေ့ရသည်။

*၂ လယ်တီအရှင်ကေလာသ၏ သင်္ဂြိုဟ်မဟာဋီကာသစ်မြန်မာပြန်၊ ပထမတွဲ။ မြန်မာပြည်စာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၉၂–ခုနှစ်။ (စာမျက်နှာ–ခ)။

ထီးမိုဃ်းကထင်းသည့် ရွှေကျောင်းကျော်ကြွ မြို့ကျောင်းတိုက်၌
ရှေးလည်ထန်းနက်ရွှေမြေမြင့်အခြင်သန်သည့်၊
ဗွာတော်ပွင့်ဘဏ္ဍာမြိုတော်မူသော

# မုံရွာလယ်တီတောရဆရာတော်

ထုတ်ဆောင်သည့်အထိစွာဖြင့်၊ ထက်သက်မြင့်ဖြိုး အထူးဖွင့်ထင်၊
ကြွမြေမြှင်များ အထိစွာဘုရားအထူးထူးသော
ထောက်ဆနှိုက်ပွင့်သစ္စာတော်ကို
ယခုသို့ မှီငြိမ်းဖြူမိရင်စေတော်မူအစ်သပြင်း၊ ကောင်းမြတ်သန့်
ရှုမ်းထောင်ထင်းထိုးပျော်၊ အထွန်းပေါ်သော

# ပရမတ္ထဒီပနီဂဏ္ဌိ

( မအေးလေး )

သက္ကရာဇ် ၁၂၆၂ ခု၊ ထပ်ရှိတွဲထအတွင်းပုံနှိပ်ပြီးသည်၊

ရန်ကုန်မြို့၊
၂၅-လမ်းစာဘိုထန်း ထိုက်နံပါတ်-၄၉၊
ထိဗျာက်မှန်စာပုံနှိပ်တိုက်။

ပရမတ္ထဒီပနီကျမ်း ပထမအကြိမ်ရိုက်စာအုပ်မျက်နှာဖုံး



အုဂ်ဖိုရ်ဆရာတော်ဘုရားကြီး



မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး

ထိုစဉ်အခါက နိုင်ငံအတွင်း အားထားကိုးကွယ်ရာဆရာတော်ဘုရားကြီးတို့ သက်တော် ထင်ရှားရှိတော်မူကြရာတွင် ဒွါရနိကာယာဓိပတိ အုဂ်ဖိုရ်ဆရာတော်ဘုရားကြီး(အေဒီ ၁၈၁၇-၁၉၀၅)ထံတော်သို့ ဤပရမတ္ထဒီပနီပါဌ်ထွက်ပေါ်လာခြင်းနှင့်စပ်၍ ဒါယကာဆရာကျေးက ပရမတ္ထ ဒီပနီပါဌ်ကိုမမြင်ရသေးဘဲ တစ်ဆင့်စကားဖြင့် ဦးဆောင်ကာလျှောက်ထားခဲ့သည်။ အုဂ်ဖိုရ် ဆရာတော်ဘုရားကြီးသည် ထိုအချိန်၌ လက်ပံလှတောကျောင်း*၁ ၌သီတင်းသုံးနေတော်မူစဉ် အခါဖြစ်ပြီး သက်တော်မှာ(၈၃)နှစ်ရှိလေပြီ။ အုဂ်ဖိုရ်ဆရာတော်ဘုရားကြီးက ဒကာမောင်ကျေး အား အောက်ဖော်ပြပါအတိုင်း အမေးအဖြေပြု၍ မိန့်ကြားတော်မူပါသည်။

ဆရာတော်ကြီး – ဒါယကာမောင်ကျေး၊ ယခုဒါယကာပြောဆိုအပ်သော သင်္ဂြိုဟ်အဖွင့် လက်သစ်ဋီကာဟူသည် ကျမ်းပြုဆရာက မည်သူဖြစ်ပေသနည်း။

ဒကာကျေး – အရှင်ဘုရား၊ တပည့်တော်မှာ ထိုကျမ်းကို မကြည့်ရှုဖူးသောကြောင့် အထူးမမှတ်သားမိပါ၊ သူများပြောဆိုသံကို အမှန်ကြားသိရသည် မှာကား လယ်တီဆရာတော်ရေးသားသော ကျမ်းဖြစ်ကြောင်း ပြောဆို ကြပါသည်။

ဆရာတော်ကြီး – ထိုလယ်တီဆရာတော်ဟူသည် ငါတို့မကြားဖူးပါတကား၊ မည်သူ၏ တပည့်ဖြစ်ဖူးသနည်း။

ဒကာကျေး – သူများပြောသံကို နောက်ကကြားဖူးသည်မှာ စံကျောင်းဆရာတော်၏ တပည့်ဟု ကြားဖူးပါကြောင်း။

ဆရာတော်ကြီး – စံကျောင်းဆရာတော်ဟူသည် ပထမစံကျောင်းဆရာတော်လော။*၂

ဒကာကျေး – အရှင်ဘုရား၊ တပည့်တော်ကြားသိရသည်မှာ မင်းတုန်းရှင်ဘုရင်နှင့် အိမ်ရှေ့မင်း*၃ နှစ်ပါးတို့၏ဆရာဖြစ်တော်မူသော ပထမစံကျောင်းဆရာ တော်ကြီးမဟုတ်ပါ၊ နောက်စံကျောင်းဆရာတော်ဟုကြားဖူးပါကြောင်း။

ဆရာတော်ကြီး – တကာမောင်ကျေး၊ မင်းမွေးမှ မင်းသား၊ ဆင်းရဲသားကမွေးလျှင် ဆင်းရဲသားဟု လူအများခေါ်ကြသည်မဟုတ်ပေလော။ ဆရာလုပ်သူ က စာရေးတတ်မှ တပည့်လက်သားတို့လည်းရေးသားတတ်ကြသည်။ သို့ဖြစ်လေသောကြောင့် စံကျောင်းဆရာတော်ဘွဲ့ခံ ဦးသုဒဿန ကိုယ်တိုင်ကပင် စာရေးနှင့်စာဖတ် သည်နှစ်ရပ်တွင် စာဖတ်သာ တတ်၍ စာရေးမတတ်သောပုဂ္ဂိုလ်ဟု ဥဒဟိုပတ်ဝန်းကျင်၌ ပေါ်ထင်

---

*၁ လက်ပံလှရွာသည် ရေဝတီတိုင်း၊ ဟင်္သာတခရိုင်၊ ဟင်္သာတမြို့နယ်အတွင်းတည်ရှိသည်။

*၂ ပထမစံကျောင်းဆရာတော်ဦးစန္ဒိမာကိုဆိုလိုသည်။

*၃ ကနောင်မင်းသားကြီးကိုဆိုလိုသည်။

သူတစ်ယောက်ဖြစ်ပေသတည်း။ ထိုစံကျောင်းဆရာတော် ရေးသားအပ်သော စာများမှာလည်း ဝါကျအဆက်အစပ် မသေသပ်သည်လည်းတစ်ကြောင်း၊ စကားရှုပ်ထွေးသည်လည်းတစ်ကြောင်း၊ ဆိုလိုရင်းအဓိပ္ပာယ်ကို ဝေ့လယ်လယ်ထင်ရအောင် မပြီးမပြတ်ရေးသားတတ်သည်လည်းတစ်ကြောင်း– ထို့ကြောင့် ဗန်းမော်ဆရာတော်များကပင် စာပစ်သည်ကိုခံရပေသည်၊ ယခု မောင်ကျေး လျှောက်ကြားသော လယ်တီဆရာတော်ဟူသည် အသက်သိက္ခာမည်မျှကြီးပါပြီနည်း။

ဒကာကျေး – အရှင်ဘုရား၊ တပည့်တော်ကား မမှတ်မသားမိပါ၊ သို့သော်လည်း အရှင်ဘုရား၏မြေးတော် ဟင်္သာတမြို့ဘုရားကြီးဆရာတော်[*၁] များအောက် ငါး၀ါလောက်ငယ်သေးသည်ဟု ပြောဆိုသံကြားဖူးပါကြောင်း။

ဆရာတော်ကြီး – ဒါယကာမောင်ကျေး၊ ထိုသဂြိုဟ်ဋီကာသစ်နှင့်ပတ်သက်၍ လျှောက်ထားရန်အထူးရှိသေးသလော။

ဒကာကျေး – အရှင်ဘုရား၊ ထိုဋီကာသစ်ကို အရှင်ဘုရားကြည့်ရှုရသည်, မကြည့်ရှုရသည်ကို သိလိုပါသည်။

ဆရာတော်ကြီး – ဒါယကာမောင်ကျေး၊ ထိုလယ်တီဆရာတော်ဟူသည်ကိုလည်း ယခုမှပင် ငါကြားဖူးရပေသည်၊ ထိုသဂြိုဟ်ဋီကာသစ်ဟူသည်ကိုလည်း ယခုမှပင် ငါကြားသိရပေသည်။ သို့ဖြစ်၍ ဒါယကာမောင်ကျေး လျှောက်ထားစရာ အထူးဝိသေသရှိပါသလော။

ဒကာကျေး – အရှင်ဘုရား၊ မကြည့်ဖူးသေးဘူးဟု မိန့်ဆိုတော်မူသောကြောင့် လျှောက်ထားစရာစကားဖြင့်ကုန်ပါပြီ။ သို့သော်လည်း ထိုဋီကာသစ်ကျမ်းက ဝိဘာဝိနီခေါ် ဋီကာကျော်ကျမ်းဟောင်း၌ အချက်ပေါင်း ၂၃၆–ချက်တို့ကိုပယ်ဖျက်ရေးသားလေသည်ဟု အတည်တကျ ကြားသိရသောကြောင့် ထိုအကြောင်းတို့ကို အရှင်ဘုရားအား နဂိုကလျှောက်ထားမည်ကြံသော်လည်း မေးသင့် မမေးသင့်ကိုမှ မတွေးမချင့် အခွင့်ကိုမသိတတ်လေတကားဟု အရှင်ဘုရားအပြစ်ဆိုမှာကို လွန်စွာကြောက်ရွံ့သဖြင့် မလျှောက်ဝံ့ဘဲနေရပါသည်ဘုရား။ ယခုမှာကား စကားစပ်မိသောကြောင့် လျှောက်ထားလိုသည်မှာ ထိုအချက်ပေါင်းတို့ကိုပယ်ဖျက်ခြင်းသည် မည်ကဲ့သို့ပယ်နိုင်ပါမည်နည်း။ တပည့်များမှာ ဉာဏ်မထင်အောင်သာရှိပါတော့သည်ဘုရား။

---

[*၁] ဟင်္သာတပဌမဘုရားကြီးဆရာတော်ကြီးအရှင်သာဂရဗုဒ္ဓိသည် သက္ကရာဇ် ၁၂၁၀–ပြည့်နှစ် ဖွားတော်မူလေရာ လယ်တီဆရာတော်ကြီးအောက် (၂)နှစ်ငယ်ပါသည်။ အရှင်သောဘန၏ သာသနဝံသဒီပနီ။ ၁၃၃၆–ခုနှစ်။ (စာမျက်နှာ–၅၃၄)။

ဆရာတော်ကြီး – တကာမောင်ကျေး၊ ငယ်ငယ်ကလေ့ကျက်ကြကုန်သော လေက်မပုံကို ယုံကြည်မိသလော။

ဒကာကျေး – အရှင်ဘုရား၊ လေက်မပုံဟူသည် ယုံတန်း ကြည်ဆယ်သောပုံစကားမျှသာဖြစ်ပါသည်၊ စင်စစ်ယင်း၏အစွမ်းအားဖြင့် ပိုက်ဆံတစ်ပြားကို တစ်လက်မဘွဲ့သည့်အတိုင်း ထိုအတိုင်းအထွာနှင့် တစ်လက်မတိတိသာ အရပ်မြင့်သောသူက နေ့,လနှစ်ပါးကိုမှီရမည်ဆိုသော် ပြောသူလည်းမယုံ, ကြားသူလည်းမယုံ နှစ်ပါးစလုံးစုံကြပါသည်။

ဆရာတော်ကြီး – ဒကာမောင်ကျေး၊ ကလေးငယ်များကို မချွင်းကဘူးလော။

ဒကာကျေး – အရှင်ဘုရား၊ သို့အတွက် ယခုအခါ အစိုးရမင်းတို့က အသက်တစ်ဆယ့်လေးနှစ်တင်းတင်းပြည့်မှ ဥပဒေဝင်စေဟု ပြဋ္ဌာန်းချက်ပြုပါကြောင်း။

ဆရာတော်ကြီး – သည်လိုဖြင့် အရှင်းသားကပဲ၊ လေက်မပုံအခင်းသွားနှင့် အကင်းပါးလို့ ပမာချိန်ပြီးလျှင် မသာအိမ်ကလေးဝိုင်းမှာ သွေးထိုင်းအောင် အညောင်းခံ၍ ပြောင်းဆန်အောင်ပြောပေအုံးတော့ မောင်ကျေး-

စသည်ဖြင့် မိန့်ဆိုတော်မူကြောင်းတို့ကို အမှတ်အသားပြုခဲ့ကြပါသည်။*၁

အချို့သောပုဂ္ဂိုလ်တို့ကလည်း ရန်ကုန်မြို့ ဗဟန်းရပ် ရွှေတိဂုံစေတီတော်၏ခြေတော်ရင်း ဇင်္ဂလားကျောင်းတိုက်၌သီတင်းသုံးနေတော်မူသော အဘိဓမ္မာအရာ၌လွန်စွာကျော်ကြားသည့် မြို့ပြင်ကြီးဆရာတော်ဘုရားကြီးအရှင်စန္ဒဝံသာလင်္ကာရထံချဉ်းကပ်၍ ပရမတ္ထဒီပနီပါဌ် ထွက်ပေါ်လာခြင်းနှင့်စပ်လျဉ်း၍ မေးလျှောက်ကြရာ မြို့ပြင်ကြီးဆရာတော်ဘုရားကြီးက-

'ငါတို့ စာချပို့စဉ်အခါက ဝိဘာဝိနီဋီကာကျော်၌ ပါဠိ,အဋ္ဌကထာ,ဋီကာတို့နှင့် မကိုက်ညီသောအချက်ပေါင်း ခြောက်ဆယ်, ခုနစ်ဆယ်ခန့်လောက်သာ တွေ့ရှိဖူးသည်၊ ယခု အထက်အညာတောကျောင်းဘုန်းကြီးတစ်ပါးက အချက်ပေါင်းနှစ်ရာကျော်တွေ့ရှိသည်–ဟု အမိန့်ရှိတော်မူပါသည်။ ဤသို့ မြို့ပြင်ကြီးဆရာတော်ဘုရားအမိန့်ရှိပုံကို မြို့ပြင်ကြီးဆရာတော်ဘုရား၏တပည့် ဇင်္ဂလားဆရာတော်ဦးရေဝတက ဆာဘိုးသာအား ပြန်လည်မိန့်ကြားခဲ့ခြင်းဖြစ်ကြောင်းသိရသည်။*၂

အချို့သောပုဂ္ဂိုလ်တို့ကလည်း ရွှေကျင်နိကာယာဓိပတိ မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးထံတော်သို့ချဉ်းကပ်ပြီး ပရမတ္ထဒီပနီပါဌ်ထွက်ပေါ်လာခြင်းနှင့်စပ်လျဉ်း၍ လျှောက်ထားကြရာ၊ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးက–

'လယ်တီဋီကာသည် ယခု ကြိုက်,မကြိုက် အငြင်းပွားနေကြသော်လည်း နောင်အခါအသုံးပြုကြလိမ့်မည်'ဟု ခပ်တိုတိုအမိန့်ရှိတော်မူကြောင်း အမှတ်အသားရှိပါသည်။*၃

---

*၁ ဦးနတ်သား၏ ဥက္ကံသမာလာကျမ်းနှင့်ဇာဂရိယကျမ်း။ မြန်မာ့သုခကာရီစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ ၁၇၂-၁၇၇)

*၂ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၅၄)။

*၃ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၁၉)။

ပရမတ္ထဒီပနီပါဠိထွက်ပေါ်လာစအခါက ဤကျမ်းကိုမနှစ်သက်သောပုဂ္ဂိုလ်တို့သည် နှုတ်အားဖြင့်သာဝေဖန်ပြောဆိုခဲ့ကြပြီး၊ နောင်မကြာမီကာလအတွင်းမှာပင် စာဖြင့်ရေးသားကာကန့်ကွက်ကြသည်ကိုလည်းတွေ့ရှိရပါသည်။

## ရူပဒီပနီနှင့် နိဗ္ဗာနဒီပနီကျမ်းပုံနှိပ်စာအုပ်

ဤ ၁၂၆၂–ခုနှစ်၊ တန်ခူးလ (အေဒီ ၁၉၀၁–ခုနှစ်၊ မတ်/ဧပြီလ)တွင် ရန်ကုန်မြို့ ဟံသာဝတီသတင်းစာတိုက်က လယ်တီဆရာတော်ကြီးရေးသားတော်မူသော ရူပဒီပနီနှင့် နိဗ္ဗာနဒီပနီကျမ်းတို့ကို နှစ်စောင်တွဲ၍ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။ ထိုစာအုပ်မျက်နှာဖုံးတွင် လယ်တီဆရာတော်ကြီးကို–'ဘေးခပ်သိမ်း ဝဋ်ဒုက္ခကင်းငြိမ်းရာ နိဗ္ဗာန်သို့ရောက်လိုသူရဟန်းရှင်လူတို့၏အကျိုးငှာ သင်္ဂြိုဟ်ဋီကာသစ်ကျမ်းကိုစီရင်သော မုံရွာလယ်တီတောရဆရာတော်'ဟူ၍ဖော်ပြထားပါသည်။

သို့လျှင် လယ်တီဆရာတော်ကြီးရေးသားပြုစုတော်မူသောကျမ်းစာများကို ရန်ကုန်မြို့ရှိပုံနှိပ်တိုက်ကြီးအချို့က ပုံနှိပ်မှုဖြင့် တစ်ကျမ်းပြီးတစ်ကျမ်း ပုံနှိပ်ထုတ်ဝေနိုင်ခဲ့ကြသောကြောင့် ဆရာတော်ကြီးပြုစုသောကျမ်းဂန်စာပေတို့ နိုင်ငံအဝန်းပြန့်နှံ့ရှံ့မှုမက ဆရာတော်ကြီး၏ဂုဏ်သတင်းသည်လည်း အထက်အောက်မြန်မာနိုင်ငံအနှံ့ကျော်ကြားခဲ့ရလေသည်။

## ပဋ္ဌာနသမုပ္ပါဒဒီပနီကျမ်း

လယ်တီဆရာတော်ကြီးသည် မဇ္ဈိမဒေသသို့ခရီးကြွတော်မူစဉ်အခါက ရေးသားခဲ့သောပဋ္ဌာနသမုပ္ပါဒ်လင်္ကာ(၁၃)ပုဒ်တို့၏အဖြေ ပဋ္ဌာနသမုပ္ပါဒဒီပနီကျမ်းကို ကျိုက်ထိုမြို့မှဒကာအပေါင်းတို့၏ စာရေးလျှောက်ထားတောင်းပန်ချက်အရ သက္ကရာဇ် ၁၂၆၃–ခုနှစ်၊ ကဆုန်လဆန်း ၁၃–ရက် (အေဒီ–၂၉၊ ဧပြီလ၊ ၁၉၀၁–ခုနှစ်) နေ့တွင် လယ်တီတောရအတွင်း အင်စပိတ်တော်ဦးလူနိုင် ဆောက်လုပ်လှူဒါန်းအပ်သော အတောင်ခြောက်ဆယ်စကြံပါ စင်္ကြံကျောင်း၌ သီတင်းသုံးနေထိုင်စဉ် အပြီးသတ်ရေးသားတော်မူခဲ့ပါသည်။*၁

## ဆတ္တိံသတိမဝါဆိုတော်မူခြင်း

၁၂၆၃–ခုနှစ်၊ ဝါဦးကာလ (အေဒီ ၁၉၀၁–ခုနှစ်၊ ဇူလိုင်)သို့ရောက်သောအခါ လယ်တီဆရာတော်ကြီးသည်တပည့်ရင်း ရွှေကျောင်းဘုန်းကြီးဦးစံချိန်(ခေါ်) ဦးဉာဏဝံသ လာရောက်ပင့်ဆောင်သောကြောင့် အလုံမြို့ လေယာဉ်ရပ်ရှိ ရွှေကျောင်းသို့ကြွရောက်သီတင်းသုံးတော်မူပါသည်။ ဝါတွင်းသို့ရောက်သောအခါ တပည့်ရင်းလယ်တီပဏ္ဍိတကို နောက်ပါပစ္စာသမဏအဖြစ်ခေါ်ဆောင်ခဲ့လျက် ချင်းတွင်းမြစ်အနောက် အလုံမြို့တစ်ဖက်ကမ်းရှိ ရွှေတောင်ဦးတောင်အရပ်တွင် (၃၆)ကြိမ်မြောက် ဆတ္တိံသတိမဝါကိုကပ်ဆိုတော်မူခဲ့ပါသည်။

---

*၁ လယ်တီဆရာတော်ကြီး၏ ပဋ္ဌာနသမုပ္ပါဒဒီပနီ။ ၁၉၅၀–ပြည့်နှစ်။ (စာမျက်နှာ–၂၂၀)။

ဘေးခပ်သိမ်းဝဋ်ဒုက္ခကင်းငြိမ်းရာနိဗ္ဗာန်သို့
ရောက်လိုသူရဟန်းရှင်လူတို့၏
အကျိုးငှာ။
သဗ္ဗိုဟ်ဒိုကာသစ်ကျမ်းကိုစီရင်သော

**မုံရွာလယ်တီတောရဆရာတော်။**

ပြုစီရင်အပ်သည့်

**ရူပဒီပနီကျမ်း။**

နှင့်

**နိဗ္ဗာနဒီပနီကျမ်း။**

---

၁၂၆၂ ခုနှစ်၊တန်ခူးလ။
ရန်ကုန်မြို့၊ဟံသာဝတီသတင်းစာတိုက်။

ဗိဋကတ်သုံးပုံတည်းဟူသော
ပဲမဝဏ္ဏာဒ္ဓိ၊ဗိပဿနာအလုပ်တည်းဟူသော
အရသာကိုသုံးစွဲ၍၊ရဲရင့်ဖွံ့ဖြိုး
သောကောသရာဇာ
ခြင်္သေ့မင်းကဲ့သို့၊ရဲတင်းထက်
မြက်၊ ဉာဏ်စက်အာဂုဓ၊ ဝေဘာဇုဂ္ဂုသ်ထူးရ
ပေသောမုံရွာမြို့၊

**လယ်တည်တောရဆရာတော်**

ဘုရားသည်၊၁၂၅၆-ခု၊
တပို့တွဲလပြည့်ကျော်-၃ရက်နေ့
တွင်အနောက်ဇမ္ဗူယတိုင်းမဟာဗောဓိသို့ကြွရာ၊
မန္တလေးမြို့နှင့်ရန်ကုန်မြို့အကြား
ရထားထက်တွင်
ရေးသားစီရင်တော်မူသော၊
ပဋိစ္စသမုပ္ပါဒ်ထက်ဘ၏အဖြေဖြစ်သော

**ပဋိစ္စသမုပ္ပါဒ်ဒီပနီ**

၁၂၆၆-ခု၊

---

ရန်ကုန်မြို့
အောက်ပေ-၅၀၊တိုက်နံပါတ်၇၅
သုဓမ္မဝတီစာပုံနှိပ်တိုက်၊
မှုပိုင်။

လယ်တီဆရာတော်ကြီး၏ ရှေးဦးပုံနှိပ်ကျမ်းစာများ



မုံရွာမြို့၊မဟာလယ်တီတိုက်အတွင်းရှိ မူလစကြံကျောင်းနေရာ
(ယခုစကြံကျောင်းအဆောက်အအုံမှာ ဒုတိယကမ္ဘာစစ်အပြီးတွင်ပြန်လည်တည်ဆောက်ထားခြင်းဖြစ်သည်။)

ရွှေတောင်ဦးတောင် *၁

ရွှေတောင်ဦးတောင်–ဟူသည် ရွှေတောင်ဦးစေတီတော်ကြီးတည်ရှိသော တောင်တော်ကြီးဖြစ်သည်။ထိုစေတီကို ရှေးက ရှေ့တာဦးစေတီဟူ၍ခေါ်တွင်ပြီး သီရိဓမ္မာသောကမင်းလက်ထက်ကပင်တည်ထားခဲ့ကြောင်းနှင့် ပုဂံခေတ် နရပတိစည်သူမင်းလက်ထက်(အေဒီ ၁၁၇၄–၁၂၁၁)တွင် တစ်ဖန်ပြုပြင်ခဲ့ပြီး၊ ရှေ့တာဦးစေတီမှ ရွှေတောင်ဦးစေတီဟုခေါ်တွင်ခဲ့ကြကြောင်း အမှတ်အသားရှိပါသည်။

ဤစေတီတော်တွင် ရှေးကကုသိုလ်မှုများဖြစ်သော တောင်ထိပ်မျက်နှာလေးဘက်မှ တောင်အောက်သို့ဆင်းသော စောင်းတန်းများ၊ ကျောက်ထီး၊ ကျောက်ရေခွက်နှင့် ကျောက်ဆီမီးတိုင်စသည်တို့ကိုလည်းတွေ့ရသည်။ ဤတောင်တော်၏ဝန်းကျင်တွင် တောင်ထွတ်တောင်ပူစာအမျိုးမျိုး၊ တောင်စွယ်တောင်စောင်း တောင်လက်မောင်းအမျိုးမျိုး၊ တောင်စွယ်တို့အကြားအေးချမ်းသာယာသော လျှိုရိုးချပ်မြောင် တောင်ချောက်တောင်ကြားများတို့ တည်ရှိသည်။ ဥတုသုံးပါးအလိုက်သီးပွင့်သော သစ်ပင်ချုံနွယ်အပေါင်းလည်းရှိသည်။ ကျေးငှက်အပေါင်းတို့၏မွေ့လျော်ရာဌာနလည်းဖြစ်သည်။ ထို့ပြင် ရွှေတောင်ဦးစေတီဝန်းကျင်တွင် စေတီပုထိုးအမျိုးမျိုး၊ ရဟန်းသူတော်, ရသေ့သူတော်, လူသူတော်တို့မွေ့လျော်ရာဌာနလည်းဖြစ်သည်။ *၂

ဤတောင်ပေါ် တောင်ထိပ်နံဘေးဝန်းကျင်တွင် သဘာဝအလျောက်ဖြစ်ထွန်းနေသောလိုဏ်ဂူငယ်များရှိရာ တောင်တော်၏မြောက်ဘက်အနိမ့်တစ်နေရာရှိ လိုဏ်ဂူအတွင်း၌ *၃ လယ်တီဆရာတော်ကြီးသီတင်းသုံးနေတော်မူခဲ့ပါသည်။ ထိုလိုဏ်ဂူသည် တောင်အတွင်းဘက်သို့ ပေ–၁၀၀ ခန့်အထိဝင်ရောက်သွားနိုင်ကြောင်း အမှတ်အသားရှိသည်။ *၄ ထိုကျောက်ဂူမျက်နှာစာတွင် အလုံမြို့နေ လွှထောင်ဆရာဒကာမောင်အောင်ဘက ဆရာတော်ကြီးနှစ်သက်သော စကြံတံကျောင်းကြီးကို ဂူဝနှင့်တစ်ဆက်တည်း ဆောက်လုပ်လှူဒါန်းထားပါသည်။ *၅ ဤတောင်ကမ်းပါးလိုဏ်ဂူဝစင်္ကြံကျောင်းမှာပင် လယ်တီဆရာတော်ကြီးသည် 'နေ့ခါကျောက်ဂူ၊ ညဥ့်မူစင်္ကြံ' ဆိုသည့်အတိုင်း နေ့အခါ လူသူအလာအသွားရှိ၍ကျောက်ဂူအတွင်းဝင်ရောက်ကာ တရားဘာဝနာအားထုတ်၍ အလွန်ပင်ပန်းလှပါမှ ဂူအတွင်းမြောက်ဘက်ချိုင့်အတွင်း ခေတ္တအိပ်စက်အနားယူ

---

*၁ ရွှေတောင်ဦးတောင်သည် စစ်ကိုင်းတိုင်း၊ ယင်းမာပင်မြို့နယ်အတွင်းတည်ရှိပါသည်။ မုံရွာမြို့နှင့် ၅–မိုင်အကွာတွင်ဖြစ်သည်။ ဆရာတော်ကြီးတို့ခေတ်က အလုံမြို့ လှေယာဉ်ဆိပ်မှလှေဖြင့် ချင်းတွင်းမြစ်ဖြတ်ကူး၍ ရွှေတောင်ဦးတောင်ခြေသို့ကြွသွားရသော်လည်း ယခုအခါ ချင်းတွင်းမြစ်ကူးတံတားကိုကျော်ဖြတ်၍ ရွှေတောင်ဦးတောင်ခြေသို့သွားရောက်နိုင်ပြီဖြစ်ပါသည်။

*၂ လယ်တီဆရာတော်ကြီး၏ အာဟာရဒီပနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၀–ပြည့်နှစ်။ (စာမျက်နှာ–၁၃၆၊ ၁၃၇)။

*၃ ယခု ဤလိုဏ်ဂူကို လိုဏ်ဂူအမှတ်(၁) လယ်တီလိုဏ်ဂူ(Ledi Cave)ဟု အမည်ပေးထားပါသည်။

*၄ ထိုလိုဏ်ဂူအတွင်းဘက်၌ တောင်ပြို၍ ကျောက်ခဲများရှိနေ၍ ယခုအခါ ကျောက်တုံးများဖြင့်ပိတ်ထားပြီးဖြစ်ရာ ဂူအတွင်းဝင်ရောက်ရန် ခဲယဉ်းသွားပြီဖြစ်သည်။

*၅ လယ်တီဆရာတော်ကြီး၏ အနတ္တဒီပနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၀–ပြည့်နှစ်။ (စာမျက်နှာ–၁၀၇)။



အလုံမြို့မှ ချင်းတွင်းမြစ်ကိုကျော်၍ လှမ်းမျှော်ဖူးရသော ရွှေတောင်ဦးစေတီတော်



ချင်းတွင်းမြစ်ဆိပ်မှ
ရွှေတောင်ဦးတောင်ထိပ်အရောက်
အတက်လှေခါး



လယ်တီဆရာတော်ကြီးသီတင်းသုံးရာလယ်တီဂူ

တော်မူခဲ့ကြောင်းသိရသည်။ ညအခါတွင် တောင်ပေါ်၌လူသူကင်းဆိတ်သောကြောင့် ဂူဝရှိ စကြံကျောင်းသို့ထွက်တော်မူပြီး တစ်ညလုံးစကြံကြွကာ တရားလုပ်ငန်းကိုထူထောင်တော်မူခဲ့ ပါသည်။

လယ်တီဆရာတော်ကြီးနှင့်အတူပါလာသော တပည့်အရှင်ပဏ္ဍိတမှာ ထိုတောင်၏အရှေ့ ဘက် ရေးက ဖောင်ချည်တိုင်စေတီဟုခေါ်တွင်သောစေတီအနီး သဘာဝကျောက်လိုဏ်ဂူ သုံးလေးခန်းရှိရာ ကျောက်ဂူတစ်ဂူအတွင်း၌ သီးခြားသီတင်းသုံးနေတော်မူခဲ့ပါသည်။

အရှင်ပဏ္ဍိတနှင့်ဆွမ်း

လယ်တီဆရာတော်ကြီးနှင့် အရှင်ပဏ္ဍိတတို့သည် ရွှေတောင်ဦးတောင်၌နေတော်မူကြ စဉ် ဆွမ်းခံချိန်ရောက်လျှင် သပိတ်ကိုယ်စီဖြင့် တောင်ဝန်းကျင်ရှိ စုန်းချောင်းရွာ၊ လက်ခုပ်ပင် ရွာ၊ စည်သူရွာ၊ လက်ပတောရွာ၊ အောင်မိုးရွာ–စသောဂေါစရဂါမ်ရွာတို့ကို ဆွမ်းခံကြွတော် မူကြပါသည်။ လယ်တီဆရာတော်ကြီးက တောရနေစဉ်အတွင်း ချက်ပြုတ်စားသောက်ခြင်းကို တားမြစ်ထားပြီး ဆွမ်းခံ၍ရသမျှ ချို၊ ချဉ်၊ ငန်၊ စပ်အရသာမျိုးဖြင့်သာ တင်းတိမ်ရောင့်ရဲစေပါသည်။

ထို့ပြင် တပည့်ရှင်ပဏ္ဍိတကိုလည်း– 'တပည့်၊ အရသာရှိသောဘောဇဉ်ကို မမြော်နှင့်၊ စားသမျှအာဟာရ၌ စက်ဆုပ်ရွံရှာတတ်သူသည် အာသဝေါတရားစုကို ပါးလွှာအောင်ပြုနိုင်သူ မည်၏'–ဟူ၍လည်း ဟောကြားဆုံးမတော်မူပါသည်။*၁

ထိုစဉ်အခါက ရွှေတောင်ဦးတောင်အခြေရှိ တောရွာတို့မှရရှိသော ဆွမ်းအာဟာရသည် ကြမ်းတမ်းလှ၏။ ဆွမ်းဟင်းဟူ၍လည်း မည်မည်ရရမရှိ၊ ဆရာတော်ကြီးကား ဆွမ်းခံ၍ရသမျှကို မြိန်ရေယှက်ရေနှင့်ဘုဉ်းပေးတော်မူနိုင်သော်လည်း အရှင်ပဏ္ဍိတမှာ နုနုနယ်နယ်နေ၍ မြက်မြက် ကလေးဘုဉ်းပေးလိုသူဖြစ်ရာ များစွာအခက်ကြုံနေရရှာသည်။ ဆွမ်းခံကြွရာမှာလည်း ဆရာတော် ကြီးနောက်ပါးကအတူလိုက်ရပြီး ဆွမ်းဘုဉ်းပေးရာမှာလည်း ဆရာတော်ကြီးနှင့်အတူဆွမ်းဘုဉ်းပေး ရသဖြင့် လွတ်လပ်ခွင့်မရှိဘဲ သည်းခံကာ ရသမျှနှင့်တင်းတိမ်နေရသည်။ ရံခါ အလုံမြို့ လေယာဉ် ရပ် ရွှေကျောင်းမှ ဆွမ်းချိုင့်ပို့သည့်အခါမှသာ အရှင်ပဏ္ဍိတခမျာ ကောင်းစွာဘုဉ်းပေးရရှာ၏။

ရက်ကာလကြာလာသော် အရှင်ပဏ္ဍိတသည် သည်းမခံနိုင်တော့သဖြင့် မုံရွာမြို့ မူလ ရဟန်းဒကာဦးလူကြီး၊ ဒေါ်ရွှေအိမ်တို့ထံမှ ဆွမ်းဆန်နှင့်အခြားစားဖွယ်ရာတို့ကို တိတ်တဆိတ် မှာယူပြီး မိမိနေရာကျောက်ဂူအနီးရှိ ဂူတစ်ခုအတွင်း ဆွမ်းချက်ဇရပ်တစ်ခု ပြုလုပ်ထားခဲ့သည်။ ဆရာတော်ကြီးကမူ တောကျောင်းနေစဉ်တွင် ဆွမ်းခံခြင်းမှတပါး အခြားချက်ပြုတ်စားသောက် ခြင်းမပြုရဟုအမိန့်ထုတ်ထားသော်လည်း အရှင်ပဏ္ဍိတသည် တိတ်တိတ်ပုန်း မျှတရောင့်ရဲနေခဲ့ သည်၊ တစ်နေ့သော် အရှင်ပဏ္ဍိတမှုပျက်နေသည့်အတွက် ဆရာတော်ကြီး ရိပ်မိတော်မူလေသည်၊ ဆရာတော်ကြီးသည် အရှင်ပဏ္ဍိတသီတင်းသုံးရာကျောက်ဂူသို့ ရုတ်တရက်ရောက်ရှိလာပြီး

*၁ လယ်တီဦးလုပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၃၃)။



ရွှေတောင်ဦးစေတီတော်



ရွှေတောင်ဦးစေတီရှိ ရှေးဘုရားတစ်ဆူ



ရွှေတောင်ဦးတောင်အထက်၌ လယ်တီပဏ္ဍိတကိုယ်တော် သီတင်းသုံး၍ကျောက်လိုဏ်ဂူ

တောင်ဝေးကြီးနှင့် ဟိုလှန်သည်လှောထိုးကြည့်ရာမှ အရှင်ပဏ္ဍိတသိုဝှက်ထားသော မုန့်သေတ္တာ စသည်တို့ကိုတွေ့ရှိ၍ဖျက်ဆီးပစ်ပြီးလျှင် အရှင်ပဏ္ဍိတအား–

'ဟဲ့–ပဏ္ဍိတ၊ ငါ့အမိန့်ကို ဘာလို့ဖီဆန်ရသလဲ၊ နင် ငါ့ကိုဘာမှမကြောက်ဘူး၊ သင်္ကန်းဝတ်ပြီး တောထွက်လာရခြင်းမှာ သည်လို မုန့်သေတ္တာ, ယိုဘူးတွေနှင့် မိတ်ဆွေဖွဲ့နေဖို့ လေ့ကျင့်ခန်းဖွင့်ထားတာမှတ်သလား၊ ယခု ငါ့သပိတ်ကိုယူချေ၊ အဲသည်သပိတ်နှင့် မြစ်ထဲကရေကို သုံးခေါက်ခပ်၍ သောက်ရေအိုးမှာဖြည့်ကာ ဒဏ်ထမ်း ရမည်'ဟု ဒဏ်ပေးတော်မူပါသည်။

အရှင်ပဏ္ဍိတသည် ဆရာတော်ကြီး၏အမိန့်အတိုင်း ရေဒဏ်ထမ်းရန် ဝန်မလေးချေ။ သို့ရာတွင် သူတို့ရောက်ရှိနေသောနေရာနှင့် တောင်ခြေမြစ်ကမ်းမှာ မိုင်ဝက်ခန့်ဝေးကွာပြီး ထိုတောင်ထိပ်ရှိကျောက်အိုးခွက်များရှိရာသို့ သပိတ်ဖြင့်ရေတင်ရန်အတွက် တွေးမိ၍ဝန်လေး နေ၏။ သို့သော် မိုးကြိုးစက်ကွင်းကဲ့သို့ ပြင်းပြလှသော ဆရာတော်ကြီး၏အမိန့်သံကြောင့် ချက်ချင်းပင် သပိတ်ကိုစွဲကာ ရွှေတောင်ဦးတောင်အထက်မှ တောင်ခြေ ချင်းတွင်းမြစ်ကမ်းရှိ မြစ်ရေကိုယူကာ ခပ်တင်ရတော့သည်။ သို့ရေခပ်ရာ ရေဒဏ်နှစ်ကြိမ်ပြည့်လျှင် ဆရာတော်ကြီးက 'တန်တော့'ဟုအမိန့်ရှိ၏။

သို့ပါသော် အရှင်ပဏ္ဍိတမှာ ငယ်ရွယ်သေးသည့်အလျောက် မုန့်သေတ္တာမျှသုံးဆောင်ရုံနှင့် ဤမျှလောက်ရေဒဏ်တပ်ရလေချင်းဟု မခံချင်စိတ်ကလည်းဖြစ်နေ၍ ဆရာတော်ဒဏ်တပ်သည့် အတိုင်း သုံးခေါက်ပြည့်အောင် ရေဒဏ်ကိုထမ်းခဲ့လေသည်။*၁

**ဘာဝနာနှင့်ဝေးသော အရှင်ပဏ္ဍိတ**

လယ်တီဆရာတော်ကြီးသည် အရှင်ပဏ္ဍိတကိုယ်တော်အပေါ်၌ တရားဘာဝနာအားထုတ်မှု အလုပ်တွင် ဆရာသမားခြေကို လိုက်မမီနိုင်လောက်အောင် လျော့လျော့လျဲလျဲနိုင်သူအဖြစ် အားမလိုအားမရဖြစ်တော်မူခဲ့ပါသည်။ ဤသို့ အားမလိုအားမရဖြစ်တော်မူခြင်းကို ထုတ်ဖော်သောအားဖြင့် အောက်ပါတေးထပ်တစ်ပုဒ်ကိုရေးစပ်၍ အရှင်ပဏ္ဍိတကိုယ်တော်အား ပေးအပ်ခဲ့ပါသည်။

ယင်းတေးထပ်မှာ–

'ပါရမီသမ္ဘာရှိပါဘိ, တသာကိဘုန်းဝေ။
စာမရိ ထုံးအနေလို သုံးမသွေသီလ။
ပရိယတ်စံမဟေမှာ ဉာဏ်ကဝေချီးလောက်သူပ။
စိတ္တနှင့်ပညာ သာသနာမှန်လှ။
ဘာဝနာဉာဏ်အစမှာတော့ အနန္တ ဝေးပယ်။

*၁ လယ်တီဦးကောဝိဒ၏ လယ်တီပဏ္ဍိတဦးမောင်ကြီး၏ ဇနပ္ပဒတ္ထိကထာ။ (စာမျက်နှာ ၂၆–၂၉)။

သမ္မဇဉ်ဆိုခွင့်များမှာတော့ ချိုနှင့်လားမေးမဲ့သူကွယ်။
လက္ခဏာမြင်နှုန်းကျယ်သည် ယာဉ်သုံးသွယ်နေရာကျကိုဖြင့်။
ပေယျာလနာနာသူကန် ရွေးမျှမကြဲ။
ပိဋကတ်ကလေးဉာဏ်မှာသာ*၁
အရေးသန်သန် သူစွဲရှာထင့်လေး…' ဟုဖြစ်သည်။*၂

**ဓမ္မဒီပနီ**

ရွှေတောင်ဦးတောင်၌ လယ်တီဆရာတော်ကြီးသီတင်းသုံးနေတော်မူစဉ်အတွင်း မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးထံတော်မှ ဝိနည်းဆိုင်ရာအမေးပုစ္ဆာ(၁၃)ချက်ပါသော စာလွှာ တစ်စောင်ရောက်ရှိလာခဲ့ပါသည်။

ထိုအမေးပုစ္ဆာတို့ဖြစ်ပေါ်လာပုံမှာ ဤသို့ဖြစ်သည်။ ဟံသာဝတီခရိုင်၊ တကောတိုက် ဥက္ကံ ရွာကြီး၌ ဝိနည်းစာပြန်သဘင်ကြီးကို ရွှေကျင်နိကာယမှကြီးမှူး၍ကျင်းပရာ ထိုဝိနည်းစာပြန်ပွဲကြီး ပြီးဆုံးသောအခါ ဥက္ကံသူကြီးမောင်ဘိုးအို ဦးဆောင်သောဒကာ(၇)ဦးတို့က ဝိနည်းနှင့်စပ်လျဉ်း သောပုစ္ဆာ(၁၃)ချက်ကို မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးထံတော်သို့ သက္ကရာဇ် ၁၂၆၃-ခုနှစ်၊ ပထမဝါဆိုလဆုတ် ၁၀-ရက် (အေဒီ-၁၀၊ ဇူလိုင်လ၊ ၁၉၀၁-ခုနှစ်)တွင် ဆက်ကပ်ကြပါသည်။

မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးသည် ထိုပုစ္ဆာ(၁၃)ရပ်တို့ကို မိမိတစ်ပါးတည်းဖြေဆိုခြင်း ငှာစွမ်းနိုင်ပါသော်လည်း မဟာထေရ်မြတ်၏သဘောစရိုက်သည် ဝမ္မသာကစ္ဆာမဂ်လာကို ကောင်း စွာဆည်းပူးတော်မူလေ့ရှိသည့်အတိုင်း ကိုယ်တော်တစ်ပါးတည်းဖြေဆိုခြင်းမပြုသေးဘဲ ထိုအခါ က နိုင်ငံတော်၌ထင်ပေါ်ကျော်စောတော်မူကြကုန်သော ပရိယတ္တိဆောက ပိယသီလီ တိက္ခဂမ္ဘီရဗုဒ္ဓိ ဝိနိစ္ဆယပါရဂူဖြစ်တော်မူကြသော (၁) ရေဝတီမြစ်ညာ ကသာမြို့နယ် မန်လည်မြို့မ ပြာသာဒ် ကျောင်းကြီးနေ မန်လည်ဆရာတော်၊*၃ (၂) မုံရွာမြို့ လယ်တီတောရဆရာတော်၊ (၃) မုံရွာ မြို့နယ် မင်းရွာကျောက်အိုင်ဆရာတော်*၄ နှင့် (၄) ပန်းတနော်မြို့ မုတ်ကျွန်းဆရာတော်- ဟူသော မထေရ်ကြီးလေးပါးတို့ထံ ထိုပုစ္ဆာ(၁၃)ချက်တို့ကိုပေးပို့၍ဖြေကြားရန်နှိုးဆော်တိုက်တွန်း

---

*၁ ဤတေးထပ်တွင် လယ်တီဆရာတော်ကြီးက 'ကဗျာလေး ကလေးဉာဏ်မှာသာ- အရေးသန်သန် သူစွဲရှာထင့်လေး' ဟု မူလရေးတော်မူရင်းဖြစ်သည်-ဟုလည်း ယူဆကြသည်။

*၂ လယ်တီဆရာတော်ကြီး၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆-ခုနှစ်။ (စာမျက်နှာ-၁၁၆)။

*၃ မန်လည်ဆရာတော်၏ ထိုဝိနည်းပုစ္ဆာ(၁၃)ချက်အဖြေကို ဝဇီရဗုဒ္ဓိဗျာကရဏ-ဟူသောအမည်ဖြင့် ပုံနှိပ်ခဲ့ပါသည်။

*၄ ကျောက်အိုင်ဆရာတော်ကြီးသည် ခင်မွန်ဆရာတော်ကြီး၏တပည့် သက္ကရာဇ်-၁၂၀၅ (အေဒီ-၁၈၄၃)ခုနှစ်ဖွား၍၊ သက္ကရာဇ် ၁၂၈၂ (အေဒီ-၁၉၂၀)ခုနှစ်တွင်ပျံလွန်သည်။ မင်းတုန်းမင်းက မြို့တော်ပင့်၍ မင်းဆရာတံဆိပ် ဆက်ကပ်လှူဒါန်းသော် လည်း မြို့တော်သို့လည်းမလိုက်၊ တံဆိပ်ကိုလည်းအလှူမခံဘဲ တောကျောင်း၌သာနေ၍ သာသနာပြုခဲ့သော သူတော် ကောင်းဆရာတော်ကြီးတစ်ပါးဖြစ်သည်။ အရှင်ပဏ္ဍိတ၏ ရွှေကျင်နိကာယသာသနာဝင်။ ၁၉၆၃-ခုနှစ်။ (စာမျက်နှာ ၄၁၁-၄၁၅)။

ဗိဿာဝတီနယ်၊အကောတိုက်သူကြီးတို့ပျှောက်ဘွာ
ပါ၊ဝုန္တာတဆဲ့သုံးချက်ကို၊မန္တလေးမြို့-မဟာဝိ
သုဒ္ဓါရာမိကဆရာတော်ဘုရားကြီးရှိနေသော
တိုက်တွန်းတော်မူချက်အရ
မုံရွာမြို့
**လယ်တီဆရာတော်ဘုရားကြီး**
သည်၊ယထာဘူတ၊ဓမ္မအညီ၊စိစစ်ရေးသား
တော်မူအပ်သော
**ဓမ္မဒီပနီကျမ်း။**

စာအုပ်ရှင် မအေးမေ၊
သက္ကရာဇ်-၁၂၇၀ပြည့်နှစ်ပြာသိုလ
အတွင်းပုံနှိပ်၍ပြီးသည်၊

ရန်ကုန်မြို့၊
၂၅-ထမင်းစာဆိုတန်း၊တိုက်နံပါတ်-၄၉
ကဝိမျက်မှန်စာပုံနှိပ်တိုက်၊
မောင်ချစ်ရ၊


မန်လည်ဆရာတော်ကြီး


မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး


မုတ်ကျွန်းဆရာတော်ကြီး


ချင်းတွင်းမြစ်နံဘေးရှိ ရွှေတောင်ဦးတောင်တောရရှုခင်း

တော်မူခဲ့ပါသည်။*[၁] ဤသို့ဖြင့် ထိုဥက္ကံသူကြီးမေးလျှောက်သော အမေးပုစ္ဆာ(၁၃)ချက်သည် လယ်တီဆရာတော်ကြီးထံသို့ ရောက်ရှိလာခဲ့ရပေသည်။

လယ်တီဆရာတော်ကြီးသည် မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားအား နောင်တော်ကြီးသဖွယ် ချစ်ခင်လေးမြတ်ခြင်းရှိသည့်အားလျော်စွာ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏နှိုးဆော်တိုက်တွန်းချက်ကို နှစ်သက်ဝမ်းမြောက်စွာ ဝန်ခံပဋိညာဉ်ပေး၍ မြတ်စွာဘုရား၏အလိုတော်ကျ တရားဓမ္မနှင့်အညီ အမေးပုစ္ဆာ(၁၃)ချက်တို့ကို ရွှေတောင်ဦးတောင်၌ဝါကပ်ဆိုတော်မူစဉ်အတွင်း ရေးသားဖြေဆိုတော်မူခဲ့ပါသည်။ ပြီးလျှင် ထိုပုစ္ဆာဝိသဇ္ဇနာတို့ကို 'ဓမ္မဒီပနီ'ဟူသောအမည် သမုတ်တော်မူ၍ မဟာဝိသုဒ္ဓါရုံဆရာတော်၏ထံတော်သို့ ပေးပို့ခဲ့ပါသည်။ မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးကလည်း လယ်တီဆရာတော်ကြီးရေးသားပေးပို့သော ဓမ္မဒီပနီကို အဖန်ဖန်အထပ်ထပ် သုံးသပ်ကြည့်ရှုတော်မူရာ များစွာနှစ်သက်ဝမ်းမြောက်တော်မူခဲ့ပါသည်။*[၂]

## အာဟာရဒီပနီ

လယ်တီဆရာတော်ကြီးသည် ရွှေတောင်ဦးတောင်၌ဝါကပ်သီတင်းသုံးနေတော်မူစဉ်အတွင်း ဝါတွင်းကာလတွင် မုံရွာမြို့၊ အလုံမြို့တို့မှဥပုသ်သည်အများအပြား လာရောက်၍ ဥပုသ်သီတင်းဆောက်တည်ကြ၊ လယ်တီဆရာတော်ကြီးထံမှတရားဒေသနာ နာကြားကြပါသည်။ တစ်ခါသော် ဆရာတော်ကြီးက သံယုတ္တနိကာယ် နိဒါနဝဂ္ဂသံယုတ်၊ ခန္ဓဝဂ္ဂသံယုတ်ပါ သုတ္တန်ဒေသနာတော်တို့၌လာသော အာဟာရကမ္မဋ္ဌာန်းလေးပါး၊ ခန္ဓကမ္မဋ္ဌာန်းငါးပါးတို့ကို ပရိညာသုံးပါးအစီအရင်နှင့်တကွ ကမ္မဋ္ဌာနဝိဓိစကားအစဉ်ကို ဟောကြားတော်မူပါသည်။ ထိုတရားတော်ကိုပင် အများမှတ်သားကြစေခြင်းငှာ လယ်တီဆရာတော်ကြီးက အာဟာရဒီပနီအမည်ဖြင့် ကျမ်းတစ်စောင်တစ်ဖွဲ့ကို ရွှေတောင်ဦးတောင် ကျောက်လိုဏ်ဂူဝစကြံကျောင်း၌ ဝါကပ်သီတင်းသုံးနေတော်မူစဉ် ရေးသားတော်မူခဲ့ရာ၊ သက္ကရာဇ် ၁၂၆၃–ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၁–ရက်နေ့ (အေဒီ–၂၁၊ နိုဝင်ဘာလ၊ ၁၉၀၁–ခုနှစ်)တွင် ပြီးစီးခဲ့ပါသည်။*[၃]

## အရှင်ပဏ္ဍိတ သက္ကတသင်ရန်

သက္ကရာဇ် ၁၂၆၃–ခုနှစ်၊ နတ်တော်လ(အေဒီ ၁၉၀၁–ခုနှစ်၊ ဒီဇင်ဘာလ)တွင် အရှင်ပဏ္ဍိတသည် မန္တလေးမြို့အရှေ့ မဟာဝိသုဒ္ဓါရုံတိုက်သို့သွား၍ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးထံတော်တွင် သက္ကတဘာသာသင်ယူရန်အကြောင်းပေါ်လာသည်။

---

*၁ အရှင်သီရိဓမ္မနှင့် လယ်တီပဏ္ဍိတတို့၏မဟာဝိသုဒ္ဓါရာမိကထေရုပ္ပတ္တိဒီပနီ။ ၁၉၇၅–ခုနှစ်။ (စာမျက်နှာ–၂၀၈)။

*၂ လယ်တီဆရာတော်ကြီး၏ ဓမ္မဒီပနီကျမ်း။ ဂုဏဝတီစာပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၂၈၃–ခုနှစ်။ (စာမျက်နှာ–၃)။

*၃ လယ်တီဆရာတော်ကြီး၏ အာဟာရဒီပနီကျမ်းနှင့် သီလဝိနိစ္ဆယ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၀–ပြည့်နှစ်။ (စာမျက်နှာ–၁၂၅၊ ၁၃၇)။



လယ်တီပဏ္ဍိတသီတင်းသုံးရာ အရှေ့ဝိသုဒ္ဓါရုံတိုက်အတွင်းရှိ ရမည်းသင်းကျောင်း



မင်းတိုင်ပင်အမတ်ဦးလွန်း



လယ်တီဦးကိတ္တိ



လယ်တီပဏ္ဍိတကိုယ်တော်သင်္ကန်းတစ်စုံစဉ်က

သိဟိုဠ်ကျွန်း-အရှင်မောဂ္ဂလာန်မထေရ်ရေးသားတော်
မူအပ်သောမောဂ္ဂလာန်ဗျာကရုဏ်း
ကျမ်းကို၊ရုံရွှာမြို့

**လယ်တီဆရာတော်ဘုရားကြီး**

သည်၊နိကာယ်ငါးရပ်တို့မှထုတ်နုတ်၍
ဆန်းကြယ်ထူးမြတ်သောပြယုဂ်တို့ဖြင့်တန်းဆာဆင်
ပြီး၍၊သန့်ရှင်းကြည်လင်သောဝါကျ
ပုဒ်ဗျည်းအစဉ်တို့ဖြင့်၊
စီရင်ရေးသားတော်မူအပ်သော

**နိရုတ္တိဒီပနီကျမ်း၊**

ပထမနှိပ်ခြင်းစာအုပ်ရေ-၂၀၀၀၊

---

သက္ကရာဇ် ၁၂၆၇-ခု၊တော်သလင်းလအတွင်း
ပုံနှိပ်၍ပြီးသည်၊

---

ရန်ကုန်မြို့၊
၂၅-လမ်းစာဆိုထန်း၊တိုက်နံပါတ်-၄၉၊
ကဗိမျက်မှန်စာပုံနှိပ်တိုက်၊
မအေးမေ၊

လယ်တီဆရာတော်ကြီးပြုစုတော်မူသော
နိရုတ္တိဒီပနီကျမ်းပထမအကြိမ်ရိုက်စာအုပ်မျက်နှာဖုံး

အကြောင်းပေါ်လာပုံမှာ– ရန်ကုန်မြို့ ပုဇွန်တောင်ရပ်နေ မောင်လွန်းအမည်ရှိသော ဥပါသကာတစ်ဦး*[၁] က အရှင်ပဏ္ဍိတထံသို့ 'ရှာဖွေကြည့်ရှုရန် ရှင်းလင်းလွယ်ကူသောအက္ခရာစဉ်ဖြင့် ပါဠိ–မြန်မာအဘိဓာန်ကျမ်းတစ်စောင်ပြုစုပေးပါ'ဟု ပါဠိဘာသာဖြင့် စာတစ်စောင်ရေးသား လျှောက်ထားလာပါသည်။ ထိုစာအရ အရှင်ပဏ္ဍိတသည် ပါဠိအဘိဓာန်တစ်စောင်ပြုရန်အတွက် ပါဠိတစ်ဘာသာတည်းတတ်ထားရုံမျှနှင့် ပုဒ်နေစင်ကြယ်အောင် ပြုစွမ်းနိုင်မည်မဟုတ်ဘဲ သက္ကတဘာသာကိုပါ ချေချေငံငံပွမ်းပွမ်းတီးတီးရှိပါမှ ပုဒ်နေစင်ကြယ်ပြီး– ကောင်းမွန်ကျနသော ပါဠိအဘိဓာန်တစ်စောင်ပြုနိုင်လိမ့်မည်ဟု ယုံကြည်ချက်ရှိခဲ့သည်။ ထိုယုံကြည်ချက်အတိုင်း မိမိ၏ ဥပဇ္ဈာယ် လယ်တီဆရာတော်ကြီး၏ခြေတော်အစုံကိုဦးခိုက်ပြီး ရွှေကျင်နိကာယဥဿျောင် သက္ကတစသောဘာသန္တရဝိဒူဖြစ်တော်မူသော မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးထံတော်ရင်း၌ သက္ကတဘာသာကိုစွမ်းအားရှိသည့်အလျောက် သင်ယူခွင့်ပြုပါရန် ခွင့်ပန်လျှောက်ထားခဲ့သည်။*[၂]

လယ်တီဆရာတော်ကြီးကလည်း မိမိအနေဖြင့် နောင်သောအခါ၌ စီရင်ရေးသားလတ္တံ့ဖြစ်သော မောဂ္ဂလ္လာနသဒ္ဒါကျမ်းအဖွင့် နိရုတ္တိဒီပနီကျမ်းကိုပြုရာတွင် တပည့်ရှင်ပဏ္ဍိတ သက္ကတဘာသာသင်ကြားတတ်မြောက်ထားပါမူကား အင်အားတစ်ရပ်ဖြစ်လိမ့်မည်ဟု ယုံကြည်တော်မူပါသဖြင့်*[၃] ရှင်ပဏ္ဍိတအား– 'ငါ့တပည့်၊ ငါ့တပည့်မှာ ပါဠိပိဋကတ်ပညာလုံလောက်ပေပြီ၊ သက္ကတပညာများကျန်ရှိသေး၏။ ငါ၏မဟာမိတ်ဖြစ်သော မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးရှိသည်၊ သူသည် သက္ကတဘာသာတို့၌ ကျွမ်းကျင်သည်။ ၎င်းဆရာတော်ကြီးထံသွားရောက်ဆည်းကပ်၍ သက္ကတများကို သင်ယူချေ'ဟု မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးထံတော်သို့သွားရောက်၍ သက္ကတဘာသာသင်ယူရန် ခွင့်ပြုတော်မူခဲ့သည်။*[၄]

လယ်တီဆရာတော်ကြီး၏ခွင့်ပြုချက်ကိုရလျှင်ပင် ရှင်ပဏ္ဍိတသည် မိတ်ဆွေဖြစ်သူ ရှင်ကိတ္တိအားအဖော်ပြု၍ သက္ကရာဇ် ၁၂၆၃–ခုနှစ်၊ နတ်တော်လဆန်း ၇–ရက် (အေဒီ–၁၇၊ ဒီဇင်ဘာလ၊ ၁၉၀၁–ခုနှစ်)တွင် မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ခြေတော်ရင်းသို့ သက္ကတဘာသာသင်ယူရန် သွားရောက်ခဲ့လေသည်။*[၅]

---

*[၁] နောင်အခါ သစ္စာဝါဒီသတင်းစာတိုက်ပိုင်ရှင် မင်းတိုင်ပင်အမတ် ဦးလွန်း (အေဒီ ၁၈၆၉– ? ) ဖြစ်ပါသည်။ ဦးလွန်းသည် ပါဠိစာပေကိုစိတ်ဝင်တစားရှိပြီး အသက်အရွယ်အတော်ကြီးသည့်အထိ ပါဠိပဥ္စမပြန်စာမေးပွဲကို ဝင်ရောက်ဖြေဆိုသူဖြစ်သည်။ ဦးလွန်းသည် ပါဠိစာပေထွန်းကားရေး၌ များစွာစိတ်ထက်သန်သူဖြစ်၍ မဲဇာတောင်ခြေရတုကို ပါဠိဘာသာဖြင့် ပြန်ဆိုရသော ပါဠိစာပေပြိုင်ပွဲမျိုး၊ မိမိပိုင်သောသတင်းစာ၏ အမည် 'သစ္စာဝါဒီ'ကို ပါဠိဘာသာဖြင့် ဋီကာဖွင့်၍ပြိုင်စေသောပြိုင်ပွဲမျိုး–စသည် မကြာခဏကျင်းပကာ ထိုက်တန်သောဆုများချီးမြှင့်ခဲ့သူဖြစ်သည်။ The Indo- Burma Publishing Angency က စီစဉ်ထုတ်ဝေသော Who's Who in Burma 1926 (စာမျက်နှာ–၁၃၂)တွင် မင်းတိုင်ပင်အမတ် ဦးလွန်း K.S.M ၏အတ္ထုပ္ပတ္တိအကျဉ်းချုပ်ကို ဖော်ပြထားပါသည်။

*[၂] လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ပါဠိအဘိဓာန်ချုပ်။ ဣစ္ဆာသယပုံနှိပ်တိုက်၊ ရန်ကုန်မြို့။၁၃၂၇–ခုနှစ်။(စာမျက်နှာ–ခ)။

*[၃] လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီပါဌ်။ ၁၂၆၇–ခုနှစ်။ (စာမျက်နှာ–၅)။

*[၄] လယ်တီဦးကောဝိဒ၏ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး ဇနုပ္ပတ္တိကထာ။ (စာမျက်နှာ–၃၃)။

*[၅] လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၃၉၄)။

မန္တလေးမြို့အရှေ့ပြင် မဟာဝိသုဒ္ဓါရုံတိုက်သို့ အရှင်ပဏ္ဍိတရောက်ရှိလျှင် မဟာဝိသုဒ္ဓါရုံ ဆရာတော်ကြီးက အရှင်ပဏ္ဍိတကို အထူးဂရုစိုက်တော်မူ၏။ ချစ်ကြည်လေးမြတ်ခြင်းဖြင့် အားကိုးအားထားပြုတော်မူရုံသာမဟုတ်၊ မျက်မှောက်မျက်ကွယ် နှစ်သွယ်စလုံး ချီးမြှောက် တော်မူလေသည်။ အလိုရှိသောသက္ကတစာပေကိုလည်း သင်ကြားပေးတော်မူ၏။ သီးခြား ကျောင်း*[၁] ၌နေစေ၍ ဆွမ်းကွမ်းအလုံအလောက်ချီးမြှောက်ရုံမျှမက မိမိအတွက်သီးသန့်ထား သော မိုးရေကိုပင် ပေးသနားတော်မူခဲ့၏။

မဟာဝိသုဒ္ဓါရုံတိုက်သို့ အရှင်ပဏ္ဍိတရောက်ရှိပြီးမကြာမီမှာပင် မဟာဝိသုဒ္ဓါရုံဆရာတော် ကြီးက အရှင်ပဏ္ဍိတကို အခြားသောအရှင်ပဏ္ဍိတတို့နှင့်ကွဲပြားစေရန် 'လယ်တီတိုက်'မှ လာသောအရှင်ပဏ္ဍိတဖြစ်၍ 'လယ်တီပဏ္ဍိတ'ဟုခေါ်ဝေါ်တော်မူရာ၊ ထိုအခါမှစ၍ အရှင်ပဏ္ဍိတ သည် 'လယ်တီပဏ္ဍိတ'ဟု တွင်ခဲ့လေသည်။*[၂]

လယ်တီပဏ္ဍိတကိုယ်တော်သည် မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးထံ၌ သက္ကတစာပေ ကိုသင်ယူပြီး၊ အခြားအချိန်တို့တွင် မဟာဝိသုဒ္ဓါရုံတိုက်အတွင်း မိမိနှင့်အတူနေခွင့်ရခဲ့သော သီဟိုဠ်ကျွန်းဇာတိ အရှင်သီရိဓမ္မထံမှလည်း သီဟိုဠ်အက္ခရာနှင့်ဘာသာစကားတို့ကို သင်ယူခဲ့ ပါသည်။*[၃]

**အနတ္တဒီပနီ**

သက္ကရာဇ် ၁၂၆၃–ခုနှစ်၊ နတ်တော်လ(အေဒီ–၁၉၀၁၊ ဒီဇင်ဘာလ)တွင် တပည့်အရှင်ပဏ္ဍိတ မန္တလေးမြို့မဟာဝိသုဒ္ဓါရုံတိုက်သို့ သက္ကတသင်ယူရန်သွားရောက်နေစဉ်တွင် လယ်တီဆရာတော် ကြီး၏ဝတ်ကြီးဝတ်ငယ်ကို တပည့်ရင်း အလုံမြို့ ရွှေကျောင်းဘုန်းကြီးဦးစံချိန်ခေါ် ဦးဉာဏဝံသက တာဝန်ယူရလေသည်။ ဆရာတော်ကြီးသည် ဦးဉာဏဝံသကိုလည်း မိမိနှင့်အတူနေရခိုက် တရားဘာဝနာအလုပ်ကိုအားထုတ်ရန်တိုက်တွန်းရာ ဦးဉာဏဝံသက တရားဘာဝနာအလုပ် အားထုတ်ရန် စိတ်အကြံရှိပြီးဖြစ်ကြောင်း လျှောက်ထားခဲ့သည်။

ထို့ပြင် ဦးဉာဏဝံသက ဆရာတော်ကြီးအား 'အနမတဂ္ဂသံသရာ၌ ကျင်လည်ပြေးသွား မျောပါနစ်မွန်း၍နေကြရပါကုန်သော သတ္တဝါအပေါင်းတို့အား မဟာကမ္ဘာအသင်္ချေကြာသော် လည်း တစ်ကြိမ်တစ်ခါမျှ မတွေ့ရလို မကြုံကြိုက်ရနိုင်လိုသည်ဖြစ်၍ အလွန်တွေ့ရခဲ ကြုံကြိုက် ရခဲလှစွာသော ဗုဒ္ဓုပ္ပါဒခဏ, သဒ္ဓမ္မသဝနခဏတို့နှင့် ယခုဆိုက်တိုက် ကြုံကြိုက်တွေ့ဆုံ၍ နေကြရပါကုန်သောသူအပေါင်းတို့အား ထိုတွေ့ကြုံခဲလှစွာသော ဗုဒ္ဓုပ္ပါဒခဏ,သဒ္ဓမ္မသဝနခဏ

---

*၁ အရှေ့မဟာဝိသုဒ္ဓါရုံတိုက် ရမည်းသင်းကျောင်းနေရ၍ အရှင်ပဏ္ဍိတကို ကန္တီဆရာတော်လောင်းလျာ အရှင်ကောသလ္လက တာဝန်ယူရသည်–ဟု ရွှေကျင်သာသနာပိုင် ကျေးမြှင်ဆရာတော်ကြီး (၂၀၊ ၄၊ ၁၉၇၆)နေ့က မိန့်ဆိုတော်မူခဲ့ပါသည်။

*၂ လယ်တီဦးကောဝိဒ၏ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးဇနုပ္ပတ္တိကထာ။ (စာမျက်နှာ–၃၄)။

*၃ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၃၉၇)။

တို့၏ နှစ်ဆီသြဇာအရသာကို သုံးဆောင်ခံစံကြရန် တစ်စုံတစ်ခုသောပဋိပတ်နည်းလမ်းကို ထုတ်ဘော်ညွှန်ပြပါမည့်ကြောင်း' လျှောက်ထားလာလေသည်။*၁

ထိုအခါ လယ်တီဆရာတော်ကြီးက တပည့်ဦးဉာဏဝံသအား မိမိဆန္ဒနှင့်ကိုက်ညီစွာ ကျင့်ကြံအားထုတ်နေမှုကို နှစ်သက်အားရလျက် 'တရားချစ်ခင်သောသင်သူတော်ကောင်းတို့ အဖို့မှာ ထင်လွယ်မြင်လွယ်လှစွာသော ဝေဒနာကမ္မဋ္ဌာန်းပဋိပတ်လမ်းကိုထုတ်ဖော်ညွှန်ပြမည်'ဟု စိတ်ရည်သန်ကာ အနတ္တဒီပနီအမည်ရှိသောကျမ်းစာကို ရွှေတောင်ဦးတောင်ပေါ်ရှိ ကျောက်ဂူဝ စကြံကျောင်းတွင်နေစဉ်အခါ ရေးသားတော်မူခဲ့ပါသည်။ အနတ္တဒီပနီကျမ်းသည် ၁၂၆၃–ခုနှစ်၊ ပြာသိုလဆုတ် ၇–ရက် (အေဒီ–၃၀၊ ဇန်နဝါရီလ၊ ၁၉၀၂)တွင် ပြီးစီးခဲ့လေသည်။*၂

## ထွန်းဦးနှင့်ထွန်းလှ လွမ်းစရာ့နှစ်လူ

လယ်တီဆရာတော်ကြီးသည် ချင်းတွင်းမြစ်တစ်ဖက်ကမ်း ရွှေတောင်ဦးတောင်ပေါ် ကျောက်ဂူဝစကြံကျောင်း၌သီတင်းသုံးနေတော်မူစဉ် အလုံမြို့နေ အဘိဓမ္မာဆရာဦးထွန်းဦးနှင့် ဦးထွန်းလှတို့နှစ်ဦး ရွှေတောင်ဦး၌ ဆရာတော်ကြီး၏ဝေယျာဝစ္စသည်ပြုလုပ်ပေးရင်း ဥပုသ်စောင့်လာကြ၏။ ဤအဘိဓမ္မာဆရာနှစ်ဦးသည် အဟောအပြောဘက်မှာသာ အားသန်နေကြပြီး လက်တွေ့တရားအားထုတ်ရေးဘက်မှာကား ဆုတ်ပြယ်ပြယ်ဖြစ်နေကြ၏။ သို့ဖြစ်၍ ဤ အဘိဓမ္မာဆရာ ဥပါသကာတို့ကိုရည်ညွှန်း၍ ထိုစဉ်အခါက ဆရာတော်ကြီးရေးစပ်တော်မူခဲ့သော တေးထပ်တစ်ပုဒ်မှာ အောက်ပါအတိုင်းဖြစ်သည်။

> ထွန်းဦးနှင့်ထွန်းလှ လွမ်းစရာ့နှစ်လူ။
> ကျမ်းဝမ္ဘအဆူဆူမှာ သူမတူဉာဏ်သွား။
> ပြောဟောမှုထွေအလာ ပဒေသာနုတ်လျှာကပါး။
> အလုပ်နှင့်အဟုတ်တယ်လျှင် ဆုတ်ပြယ်ပြယ်လူစား။
> တကယ့်ဆိုရှောင်သမား ပြောင်ကြွားကြွားဟန်ပို။
> ပြောဟောဉာဏ် စာအရေးမှာတော့၊
> လျှာကလေး သွက်ကြသကို။
> သိလျက်နှင့်အမှားခို စကားထိုထိုရမယ်ဖွဲ့လို့၊
> ဘယ်တဲ့ညာတဲ့ ယောင်ယောင်ပေါင်ပေါင် ပြောကြဟန်ဆောင်။

*၁ လယ်တီဆရာတော်ကြီး၏ အနတ္တဒီပနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၀–ပြည့်နှစ်။ (စာမျက်နှာ–၁)။

*၂ လယ်တီဆရာတော်ကြီး၏ အနတ္တဒီပနီ။ ၁၉၅၀–ပြည့်နှစ်။ (စာမျက်နှာ–၁၀၇)။ အနတ္တအကြောင်းကို လယ်တီဆရာတော်ကြီး၏ တပည့်ရင်း ရွှေမြို့ဘုန်းကြီး အရှင်ကုသလ တောင်းပန်၍လည်း ဆရာတော်ကြီးသည် ၁၂၈၀–ပြည့်နှစ်၊ ပြာသိုလဆန်း ၈–ရက်နေ့ (အေဒီ–၂၈၊ ဒီဇင်ဘာလ၊ ၁၉၁၈–ခုနှစ်)ထပ်မံရေးသားခဲ့ပြီး၊ ထိုကျမ်းကို အနတ္တဒီပနီကျမ်းသစ်–ဟု အမည်ပေးထားပါသည်။ လယ်တီဆရာတော်ကြီး၏ အနတ္တဒီပနီကျမ်းသစ်။ ကဝိမျက်မှန်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၁–ခုနှစ်။ (စာမျက်နှာ–၉၄)။

နှစ်မြန်နစ်ဖို့ အလွတ်ရှောင်လျှင်
အကျွတ်ဟိုနောင် ကွာဆွမ်းရာလိမ့်လေး–ဟူ၍ဖြစ်သည်။*၁

မန်လည်နှင့်လယ်တီ

လယ်တီဆရာတော်ကြီးတို့၏ခေတ်တွင် သာသနာ့နယ်ပယ်လောက၌ ဆရာတော်ကြီးသုံးပါး အထင်အရှားရှိတော်မူရာဝယ် ပထမဆရာတော်ကြီးမှာ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး အရှင်ဝိသုဒ္ဓါစာရ၊ ဒုတိယမှာ မန်လည်ဆရာတော်ကြီးအရှင်ဇဝနနှင့် တတိယမှာ လယ်တီဆရာတော်ကြီးအရှင်ဉာဏတို့ဖြစ်တော်မူကြပါသည်။ ဤဆရာတော်ကြီးသုံးပါးတို့တွင် မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၀၀–ပြည့်ဖွား သက်တော်ရွယ်တော်အကြီးဆုံးဖြစ်၍ မြန်မာမင်းလက်ထက်က ရာဇဂုရုတံဆိပ်ကိုပင် ဆက်ကပ်လှူဒါန်းခြင်းခံယူရတော်မူသော လဒ္ဓလဒ္ဓ နရာဇဂုရုမဟာထေရ်ကြီးဖြစ်ပါသည်။*၂ မန်လည်ဆရာတော်ကြီးမှာ သက္ကရာဇ် ၁၂၀၃–ခုနှစ်ဖွား သက်တော်ရွယ်တော်အလတ်ဖြစ်ပြီး၊ လယ်တီဆရာတော်ကြီးက သက္ကရာဇ် ၁၂၀၈–ခုနှစ်ဖွား သက်တော်ရွယ်တော်အငယ်ဆုံး ညီထွေးပမာတူလေသည်။

ဤဆရာတော်ကြီးသုံးပါးတို့သည် သီတင်းသုံးရာဌာနကွာလှမ်းကြသော်လည်း တစ်ပါးနှင့်တစ်ပါး တစ်ဖတည်းသောဘုရားရှင်၏သာသနာ၌ပေါက်ဖွားလာရသော သားတော်ကြီးများပီပီ ညီရင်းအစ်ကိုပမာ ချစ်ခင်လေးမြတ်ကြသည်။ သတင်းစကားအားဖြင့် စောင့်ရှောက်တော်မူကြသည်။ အယူဝါဒအားဖြင့် တူမျှကြသည်။ တစ်ပါး၏တပည့်ကို တစ်ပါးကသိမ်းပိုက်မွေးမြူပေးတော်မူကြပါသည်။

မန်လည်ဆရာတော်ကြီးသည် ချင်းတွင်းမြစ်၏မြစ်ညာ မုံရွာမြို့မြောက်ဘက် မန်လည်*၃ ၌ သီတင်းသုံးနေတော်မူပြီး၊ လယ်တီဆရာတော်ကြီးမှာ ချင်းတွင်းမြစ်အောက်ဘက် မုံရွာမြို့၌ သီတင်းသုံးတော်မူသည်ဖြစ်၍ ထိုခေတ်က ဤဆရာတော်ကြီးနှစ်ပါး၏ သီတင်းသုံးရာဌာန အစွဲပြု၍ 'အထက်မန်လည်–အောက်လယ်တီ'ဟူ၍ စာချိုးကြသည်။

သက္ကရာဇ် ၁၂၆၄–ခုနှစ် ဝါမဝင်မီ နယုန်လဆန်း ၁၀–ရက် (အေဒီ–၁၅၊ ဇွန်လ၊ ၁၉၀၂)တွင် လယ်တီဆရာတော်ကြီးသည် သောတာပန်တို့ဘဝကူးပုံနှင့်စပ်သော အမေးပုစ္ဆာတို့ကို ဒွိဟမကင်း မလင်းသည်နှင့် ချင်းတွင်းမြစ်ညာ မန်လည်မြို့မပြာသာဒ်ကျောင်းကြီးတွင် သီတင်းသုံးနေတော်မူသော မန်လည်ဆရာတော်ကြီးအား နောင်တော်ကြီးသဖွယ် အားကိုးအားထားပြု၍– 'ဤအရာများ၌ ဉာဏ်မရဲစိတ်မရဲ မခွဲနိုင်မခြမ်းနိုင်ရှိနေပါသည်ဖြစ်၍ အရှင့်သဘောဉာဏ်သက်ရာကို

*၁ လယ်တီဆရာတော်ကြီး၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၁၁၈)။

*၂ ဝိသုဒ္ဓါစာရ ကဝိဓဇမဟာဓမ္မရာဇဂုရု–ပထမတံဆိပ်တော်နှင့် ဝိသုဒ္ဓါစာရာဘိဇေမိပ္ပတိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု–ဒုတိယတံဆိပ်တော်တို့ဖြစ်သည်။

*၃ မန်လည်သည် စစ်ကိုင်းတိုင်း၊ ကသာခရိုင်၊ အင်းတော်မြို့နယ် အင်းတော်မြို့၌တည်ရှိသည်။

နာခံလိုပါကြောင်း လျှောက်လိုက်ပါသည်ဘုရား'ဟူသော စကားအခံဖြင့် စာရေးလျှောက်ထား ခဲ့ပါသည်။*၁

လယ်တီဆရာတော်ကြီး၏အမေးပုစ္ဆာတို့ မန်လည်ဆရာတော်ကြီးလက်တော်သို့ရောက်၍ ဆရာတော်ကြီးဖတ်ရှုတော်မူလျှင် 'အလွန်တရာခက်ခဲသော ပုစ္ဆာတစ်ပါးပါတကား၊ မမေးစဖူး အမေးထူးသော ပုစ္ဆာတို့ပါတကား'ဟု ကျူးရင့်မိန့်ကြားတော်မူပါသည်။ မန်လည်ဆရာတော် ကြီးသည် လယ်တီဆရာတော်၏အမေးပုစ္ဆာကိုဖြေဆိုတော်မူပြီး၊ ထိုအဖြေကျမ်းကို 'ဝဇိရသမ ဒုလ္လဘကျမ်း'ဟူသောအမည်ပေးတော်မူခဲ့ပါသည်။*၂ ထို့ပြင် ထိုပုစ္ဆာတို့ကိုဖြေဆိုရာ၌ ဝတ္ထုပုစ္ဆက ဂန္ထာရမ္ဘတွင် ဤအမေးပုစ္ဆာတို့၏အရှင် လယ်တီဆရာတော်ကြီး၏ဉာဏ်ပညာကြီးမားပုံကို လည်း-'ဂမ္ဘီရဉာဏတ္တဥ္စာပိ-မဟာဏ္ဏဝ, သာဂရထက်, ကြီးဆလွန်ကဲ, မြင်နိုင်ခဲအောင်, နက်နဲ သောဉာဏ်ပညာရှိသည်၏အဖြစ်' -ဟူ၍ ထည့်သွင်းရေးသားထားတော်မူပါသည်။*၃

ဤအမေးပုစ္ဆာဝိသဇ္ဇနာအဖြေလွှာတွင် မန်လည်ဆရာတော်ကြီးက ပါဠိ,အဋ္ဌကထာ-စသည် ၌ တစ်ကျမ်းနှင့်တစ်ကျမ်းဖော်ပြပုံကွဲပြားနေလျှင် ကျမ်းတစ်ကျမ်းနှင့် ညှိနှိုင်းကောက်ယူပုံနှင့် စပ်၍ အောက်ပါအတိုင်း မိန့်ဆိုနည်းပေးတော်မူပါသည်။ ယင်းမှာ-

> 'ဒေသနာသန္ဓိ မညှိမမျှ အတ္ထယုတ္တိ ရှိ,မရှိကို စိစစ်မရှာ ယထာရုတ ပါဠိက္ကမ ရှိသမျှဖြင့် နီတတ္ထချည်းလည်း မမှတ်ရ၊ နေယျတ္ထချည်းလည်း မယူရာ။ ပုဗ္ဗာ ပရပကရဏန္တရ မချဉပစာလက္ခဏာတို့ကို ဒေသနာသဘောနှင့်ထောက်ဆ၍ အညမညဝိရောဓမဖြစ်စေရဘဲ ပါဠိတော်နှင့်အဋ္ဌကထာ၊ အဋ္ဌကထာနှင့်ပါဠိ၊ ဋီကာ, ဂဏ္ဌိ-စသည်တို့ဖြင့် နှိုင်းညှိ ညီမျှအောင် အနက်အဓိပ္ပာယ်ယူဆနိုင်သော်သာလျှင် ပသံသာရဟဗုဒ္ဓမတညူ ပဏ္ဍိတတစ်ဆူအဖြစ်ဖြင့် ကောင်းကောင်းကြီးချီးမွမ်းထိုက် သည်ဟု ငါတို့ဆရာကြီးများနှင့် ငါတို့ပါ သဘောကျကုန်သတည်း။ အယမ္ပိ ဝိနိစ္ဆယော သုဒုလ္လဘော။*၄-ဟူ၍ဖြစ်သည်။

မန်လည်ဆရာတော်ကြီးသည် လယ်တီဆရာတော်မေးလျှောက်သောပုစ္ဆာကို ၁၂၆၄- ခုနှစ်၊ သီတင်းကျွတ်လဆန်း ၁၄-ရက်(အေဒီ-၁၅၊ အောက်တိုဘာလ၊ ၁၉၀၂-ခုနှစ်)တွင် ရေးသား ပြီးစီး၍ ရွှေတောင်ဦးတောင်၌ဝါကပ်နေသော လယ်တီဆရာတော်ထံပေးပို့တော်မူခဲ့ပါသည်။

---

*၁ ပုစ္ဆာဝိသဇ္ဇနာကျမ်း။ ရတနာဒီပံစာပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၀၇-ခုနှစ်။ (စာမျက်နှာ-၂)။ မန်လည်ဆရာတော်ကြီး၏ ပညာဝိမံသနကထာကျမ်း။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၇၇-ခုနှစ်။ (စာမျက်နှာ-၄)။

*၂ ပုစ္ဆာဝိသဇ္ဇနာကျမ်း။ ၁၉၀၇-ခုနှစ်။ (စာမျက်နှာ-၁၂)။ ပညာဝိမံသနကထာကျမ်း။ ၁၉၇၇-ခုနှစ်။ (စာမျက်နှာ-၁၂)။

*၃ ပုစ္ဆာဝိသဇ္ဇနာကျမ်း။ ၁၉၀၇-ခုနှစ်။ (စာမျက်နှာ-၁၅)။ ပညာဝိမံသနကထာကျမ်း။ ၁၉၇၇-ခုနှစ်။ (စာမျက်နှာ-၁၃)။

*၄ ပုစ္ဆာဝိသဇ္ဇနာကျမ်း။ ၁၉၀၇-ခုနှစ်။ (စာမျက်နှာ-၄၈)။ ပညာဝိမံသနကထာကျမ်း။ ၁၉၇၇-ခုနှစ်။ (စာမျက်နှာ-၃၉)။

### လယ်တီဆရာတော်ကြီး၏ ထပ်မံလျှောက်ထားချက်

မန်လည်ဆရာတော်ကြီးထံတော်မှ ဝဇိရသမဒ္ဒလ္လဘခေါ် သောတာပန်ပုစ္ဆာအဖြေလွှာကို လယ်တီဆရာတော်ကြီးသည် ၁၂၆၄–ခုနှစ်၊ နတ်တော်လဆန်း ၁၁–ရက် (အေဒီ–၉၊ ဒီဇင်ဘာလ၊ ၁၉၀၂)တွင်လက်ခံရရှိ၍ ဖတ်ရှုတော်မူရလျှင် ကျေနပ်အားရပြီး၊ မန်လည်ဆရာတော်ကြီးထံသို့ ထပ်မံ၍ သောတာပန်ပုစ္ဆာပြဿနာတစ်ရပ်ကို ပြာသိုလဆန်း ၁၁–ရက် (အေဒီ–၈၊ ဇန်နဝါရီလ၊ ၁၉၀၃–ခုနှစ်)တွင် မေးလျှောက်တော်မူပြန်ပါသည်။

ပုစ္ဆာမှာ အခြားမဟုတ်။ သောတာပန်ပုဂ္ဂိုလ်တို့ ကာမဘုံ၌ ၇–ကြိမ် ပဋိသန္ဓေရှိနိုင်သည် ဟူသောအယူအဆတွင် 'ကေဗိဇီ'နှင့်စပ်၍မေးသောပုစ္ဆာဖြစ်သည်။ မန်လည်ဆရာတော်ကြီးကလည်း လယ်တီဆရာတော်ကြီး၏ ဤသောတာပန်နောက်ဆက်တွဲအမေးကို ဖြေဆိုတော်မူရာ၌–

> 'ကေဗိဇီ'နှင့်စပ်၍ 'သောတာပန်တို့ကို ကေဗိဇီဆိုသည်ကား သတ္တက္ခတ္တုဒေသနာ၌ မဝင်ခြင်း၏အကြောင်းမျှ ဥပပတ္တိဘဝဗီဇကိုသာရည်သည်ဟု မှတ်ယူရာ၏။ ပဋိသန္ဓေဝါရ ဘဝဗီဇကိုမမှတ်ရာ။ ထိုသောတာပန်တို့ကိုလည်း သတ္တက္ခတ္တုပရမပုဂ္ဂိုလ်အတွင်း သွတ်သွင်းသဂြိုဟ်လျှင်လည်း အသင့်ပင်ဖြစ်သည်–ဟူသော ဤစကားကို အဆုံး၌ထည့်သွင်းတော်မူပါ။ ၎င်းစကားများကို ယခုကဲ့သို့ အဆုံးမှာထည့်ဦးမည် နှလုံးသွင်းလျက် ကိစ္စများခိုက် သတိမေ့လျော့၍ မထည့်လိုက်ရပါ'–ဟု ဖြေဆိုတော်မူခဲ့ပါသည်။

ထိုအဖြေလွှာ၏အဆုံး၌ မန်လည်ဆရာတော်ကြီးက လယ်တီဆရာတော်ကြီးအား မိမိ၏ညီငယ် မဟာပညာကျော်ဖြစ်သူထေရ်ရှင်ကို ဂုဏ်တင်သောအားဖြင့်–

> 'ခမတု အာယသ္မာ မဟာဉာဏဝန္တု။ မဟာဉာဏဝန္တု =ကြီးမြတ်သောဉာဏ်ရှိတော်မူသောလယ်တီဆရာတော်။ အာယသ္မာ–အရှင်သည်၊ ဣဒံ ဝိန္နိစ္ဆယံ–ဤသို့ရေးသားပေးပို့လိုက်သော အဆုံးအဖြတ်ကို၊ ခမတု–နှစ်သက်တော်မူစေချင်၏(ဝါ) နှစ်သက်တော်မူပါလေလော့'ဟူ၍ အဆုံးသတ်ရေးသားထားတော်မူပါသည်။*[၁]

### သတ္တတိံ သတိမဝါဆိုတော်မူခြင်း

လယ်တီဆရာတော်ကြီးသည် ရွှေတောင်ဦးတောင်ကျောက်ဂူဝစကြံကျောင်းမှာပင် ၁၂၆၄–ခုနှစ်၊ ဝါတွင်းကာလ (အေဒီ ၁၉၀၂–ခုနှစ်၊ ဇူလိုင်/ဩဂုတ်)တွင် (၃၇)ကြိမ်မြောက် သတ္တတိံ သတိမဝါကို ဝါကပ်တော်မူခဲ့ပါသည်။ ဤသို့ဝါကပ်ရာတွင် ပစ္ဆာသမဏဖြစ်သူ အရှင်ပဏ္ဍိတမှာ မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီး၏ခြေတော်ရင်း၌ သက္ကတဘာသာသင်ယူနေစဉ်အခါဖြစ်၍ ဆရာတော်ကြီးအားအနီးကပ်အလုပ်အကျွေးအဖြစ် အလုံမြို့ ရွှေကျောင်းဘုန်းကြီးဦးဉာဏဝံသနှင့် လူဥပါသကာ အလုံမြို့ အဘိဓမ္မာဆရာဦးထွန်းဦးတို့က ရွှေတောင်ဦး

*၁ ပုစ္ဆာဝိသဇ္ဇနာကျမ်း။ ၁၉၀၇–ခုနှစ်။ (စာမျက်နှာ–၅၄)။ ပညာဝိမံသနကထာကျမ်း။ ၁၉၇၇–ခုနှစ်။ (စာမျက်နှာ–၄၄)။

တောင်သို့လိုက်ပါ၍ ဝတ်ကြီးဝတ်ငယ်ပြုစုကြသည်။ ထိုပြင် မုံရွာမြို့မှ ဒါယကာကြီးများလိုက်ပါ ဝတ်ပြုကြ,ဥပုသ်စောင့်ကြရာ မုံရွာမြို့ မရိုးကုန်းရပ်နေ စစ်ကဲကြီးဦးရိုက်၊ ဒေါ်ဖွားမယ်၊ မုံရွာမြို့ ဆန်တန်းရပ်နေ လယ်တီကျောင်းတိုက်သိမ်ဒါယကာ ဦးနိုင်၊ ဒေါ်ထွန်းဆင်တို့လည်းအပါအဝင် ဖြစ်သည်။

လယ်တီဆရာတော်ကြီးအဖျားရောဂါစွဲကပ်ခြင်း

လယ်တီဆရာတော်ကြီးသည် ရွှေတောင်ဦးတောင်၌ ဝါကပ်ဆိုနေစဉ်အတွင်း အဖျားရောဂါ စွဲကပ်၍ အလုံမြို့ ရွှေကျောင်းသို့ပင့်ဆောင်ကာ ဆေးဝါးကုသကြပုံတို့ကို နောင်အခါ လယ်တီ ဦးဝဏ္ဏိတ(လယ်တီဦးလုတင်)က အောက်ပါအတိုင်းမှတ်တမ်းတင်ခဲ့ပါသည်။

> ရွှေတောင်ဦးတောင်၌သီတင်းသုံးတော်မူစဉ် အံ့ဩဖွယ်ကောင်းသောအချက်ကြီးကား– ၎င်းတောင်ကျောက်ဂူထဲတွင် လေးလ,ငါးလမျှ တစ်ပါးတည်းနေတော်မူလျက် ပဓာနအလုပ်ကိုအားထုတ်တော်မူစဉ် အဖျားရောဂါကြီးနှိပ်စက်၍လာ၏။ ဆရာတော်ဘုရားကြီးလည်းစွဲကပ်သောဝေဒနာကို လူမှန်းမသိတစ်ချက်,သိတစ်ချက် နှင့် သည်းခံတော်မူရသည်။ ထိုအခါ ကျောက်ဂူ၏တစ်ခုသောထောင့်ကွေ့တွင် ကျောက်ဆင်းတုနှင့်တူသော အလွန်ဖြူစင်သောအဝတ်ကိုဝတ်လျက် 'နတ်လား, လူလားမသိ' သူတစ်ယောက်ထိုင်၍ ဆရာတော်ကြီးအားစောင့်ရှောက်နေ၏။ ဆရာတော်ကြီးလည်း ဒုက္ခဝေဒနာကိုခံစားနေရသည့်အတွက် ၎င်းလူဖြူကို မေးခြင်း,ခေါ်ခြင်း မပြုမလုပ်နိုင်ဘဲ တစ်ညဉ့်လုံး ထိုလူဖြူနှင့်သာနေတော်မူ၏။*၁
>
> နံနက်လင်း၍ ဆွမ်းခံချိန်ရောက်သောအခါ ဆွမ်းခံရွာကဒါယကာများလာ၍ အကြောင်းခြင်းရာကိုမေးမြန်းပြီးလျှင် ရွာသို့ယူ၍ကုသဖို့ရန် လျှောက်ထားကြကုန်၏။ ထိုလျှောက်ထားချက်ကိုပယ်တော်မူ၍ 'မုံရွာသို့ရောက်အောင်ပို့ကြပေတော့'– ဟုမိန့်တော်မူ၏။ ဒါယကာတို့သည်လည်း ထမ်းစင်ကုလားထိုင်နှင့် ထမ်း၍ယူကြရာ ကုလားထိုင်ပေါ်သို့ရောက်သည်နှင့်တစ်ပြိုင်နက် ပကတိလူမာကဲ့သို့ဖြစ်ပြီး သတိမေ့ လျက်အိပ်ပျော်သွားရာ တောင်တစ်လုံး၊ ကုန်းကျင်းအဆင်းအတက်တွေကိုကျော်၍ သွားသော်လည်း မနိုးဘဲ သလ္လာဝတီမြစ်အရှေ့ဘက်သို့ကူး၍ အလုံမြို့ရွှေကျောင်း (ဦးဉာဏဝံသ) ဦးစံချိန်ကျောင်းသို့ရောက်အောင် ယူဆောင်ကြကုန်၏။ ဦးစံချိန် ကျောင်းသို့ရောက်၍ ကုလားထိုင်ကိုချသောအခါ သတိရ၍နိုးလာ၏။
>
> 'ဤကဲ့သို့ဖြစ်ရခြင်းသည် အကြောင်းဘယ်သို့နည်း'ဟုလျှောက်ထားရာ၊ 'ညဉ့်က ဂူထဲ၌ လူဖြူကလိုက်၍စောင့်ရှောက်ဟန်တူသည်' –ဟု မိန့်တော်မူ၏။ ၎င်းနောက်

*၁ ဤဝတ်ဖြူစင်ကြယ်နှင့်ပုဂ္ဂိုလ်ကို ကောင်းကင်ဘုံသား(နတ်သိကြား)တစ်ဦးသာဖြစ်သည်ဟု ယုံကြည်ကြသည်–မောင်မာကျော်(လယ်တီ)၏ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးထေရုပ္ပတ္တိအကျဉ်း။ ကြီးပွားရေးပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၂၀၀၃–ခုနှစ်။ (စာမျက်နှာ–၂၁)။ Ven. Ashin Ñyanissara' A Short Biography of The Venerable Ledi Sayadaw. 1998. Page-34.

မုံရွာသို့ရောက်အောင်ယူဆောင်သွားကြသည်။ မုံရွာသို့ရောက်သောည၌ အိပ်မက်ကြီးစွာ မြင်မက်တော်မူ၏။

၁။ မြင်းမိုတောင်ကြီးကို အမှီတံကဲပျဉ်ပြုပြီး ယုဂန္ဓိုရ်တောင်ပေါ်မှာ ထိုင်နေရသည်ဟု မြင်မက်ခြင်းတစ်ချက်၊

၂။ ယုဂန္ဓိုရ်တောင်ပေါ်ကနေပြီး အလွန်ရှင်လန်း စိမ်းစိုသော စကြာဝဠာတစ်ခုလုံးကို ကြည့်ရှုရသည်ဟု မြင်မက်သည်တစ်ချက်၊

၃။ ယုဂန္ဓိုရ်တောင်၏အရှေ့တောင်ဘက် ဝင်းဝင်းထိန်အရောင်အမျိုးမျိုးတို့ဖြင့် ပြည့်လျှက်နေသော ရတနာလိုဏ်ဂူကြီးတစ်ခုကိုမြင်ရသည်ဟု မြင်မက်သည်တစ်ချက်၊

၄။ ၎င်းလိုဏ်ဂူထဲသို့ တောငှက်သတ္တဝါအမျိုးမျိုးတို့ ရွှင်လန်းဝမ်းမြောက်စွာ ဝင်ရောက်ခိုအောင်း၍နေသည်ဟု မြင်မက်သည်တစ်ချက်၊

၅။ မီးအလျှံတွေကဲ့သို့နေသော ဂူလိုဏ်ကြီးထဲသို့ ဘာကြောင့်ဝင်ကြသလဲ၊ မပူကြဘူးလား-ဟုမေးသောအခါ ကိုယ်တော်၏လိုဏ်ဂူထဲမှာနေရတာ အလွန်အေးမြချမ်းသာ၍ ပျော်လွန်းလို့ဝင်နေကြပါသည်-ဟု ငှက်သတ္တဝါများကပြောသည်ကို မြင်မက်သည်တစ်ချက်၊

၆။ မြင်းမိုတောင်ကိုမှီနေရာ တစ်အောင့်လောက်ကြာသောအခါ ခန္ဓာကိုယ်ကြီးမြင်းမိုတောင်ကြီးဖြစ်သွားသည်-ဟု မြင်မက်သည်တစ်ချက်-

ဤခြောက်ချက်သောအိပ်မက်ကြီးတို့ကို မြင်မက်တော်မူသည်။ 'ဤအိပ်မက်၏အကျိုး ဘယ်လိုပါလဲဘုရား'ဟုလျှောက်ထားသောအခါ- 'နိုင်ငံလှည့်ပြီးသာသနာပြုနိုင်ဖို့ရန် မြင်မက်သည်'ဟု အမိန့်ရှိတော်မူသည်။ ၎င်းနောက် သုံးရက်မြောက်သောည၌ ကပ္ပိယတစ်ယောက် အိပ်မက်မြင်မက်ပြန်သည်။ မြင်မက်ပုံကား-

၁။ ဆရာတော်ဘုရားကြီး၏လက်ခုပ်ရေအိုင်ထဲသို့ ငါးတွေဝင်လာပြီးလျှင် ပျော်ပါးမြူးတူးနေကြသည်ဟု မြင်မက်သည်။

၂။ အတော်ကြာသောအခါ ဆရာတော်ဘုရားကြီး၏ လက်ခုပ်သည် အလွန်ကြီးကျယ်သော ရေအိုင်ကြီးဖြစ်၍သွားသည်ဟု မြင်မက်သည်။

ကပ္ပိယဒါယကာသည် နံနက်လင်းသောအခါ ၎င်းအိပ်မက်ကို ဆရာတော်ဘုရားကြီးအား လျှောက်ထားသည်။ ၎င်းနောက် အဖျားရောဂါပျောက်ကင်းသောအခါ ရွှေတောင်ဦးတောင်သို့ပင် ပြန်ကြွတော်မူ၍ တောနှင့်ဆိုင်ရာကမ္မဋ္ဌာန်းအလုပ်ကြီးတွေကို အားထုတ်တော်မူပြန်သည်။*၁

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၄၅)။

လယ်တီဆရာတော်ကြီးသည် ၁၂၆၄-ခုနှစ်၊ ဝါကျွတ်ချိန်သို့ရောက်ပြီးသည့်တိုင် လ,အနည်း ငယ်ကြာအောင် ရွှေတောင်ဦးတောင်၌ သီတင်းသုံးနေတော်မူခဲ့သည်။ ထို့နောက် ရွှေတောင်ဦး တောင်မှ ချင်းတွင်းမြစ်တစ်ဖက်ကမ်းရှိ ရွှေကျောင်းသို့ ပြောင်းရွှေ့သီတင်းသုံးတော်မူပါသည်။

အလုံမြို့၊ ရွှေကျောင်းသည် မြစ်ကမ်းနား၌တည်ရှိ၍ သဲသောင်များနှင့်တောအုပ်ကြီးများ ရှိသဖြင့် အလွန်သာယာအေးချမ်းသောအရပ်ဖြစ်ပါသည်။ ထိုစဉ်အတွင်း မန္တလေးမြို့၊ မဟာဝိသုဒ္ဓါရုံ တိုက်၌ သက္ကတစာပေသင်ယူနေသော အရှင်ပဏ္ဍိတကိုယ်တော်သည် မုံရွာမြို့သို့ပြန်လည် ရောက်ရှိခဲ့ပြီး၊ မုံရွာမြို့မှတစ်ဖန် အလုံမြို့၊ ရွှေကျောင်းတော်၌သီတင်းသုံးနေတော်မူသော လယ်တီ ဆရာတော်ကြီး၏ခြေတော်ရင်းရောက်ရှိခဲ့သည်။ လယ်တီပဏ္ဍိတကိုယ်တော် မုံရွာမြို့ပြန်ရောက် ရှိလျှင် ဆောင်ရွက်ရန်လုပ်ငန်းများရှိသေးသည့်အတွက် လယ်တီဆရာတော်ကြီးသည် မုံရွာမြို့၊ လယ်တီတိုက်သို့ ပြန်လည်ကြွမြန်းတော်မူခဲ့ပါသည်။

## ပရမတ္ထသံခိပ်

လယ်တီဆရာတော်ကြီးသည် အလုံမြို့မှပြန်ကြွခဲ့ပြီး၊ မုံရွာမြို့၊ မဟာလယ်တီတောရအတွင်း ၌ သီတင်းသုံးနေတော်မူစဉ် ၁၂၆၅-ခုနှစ်ဦးကာလတွင် ဆရာတော်ကြီးထံတော်ပါးသို့ အဘိဓမ္မာ တရားတော်ကြီးကိုနားလည်လိုကြ၍ အဘိဓမ္မာစာသင်သားလုပ်လိုကြသော ဒါယကာကြီးတစ်စု ရောက်ရှိလာကြသည်။

ဆရာတော်ကြီးက အဘိဓမ္မာတရားတော်ကိုနားလည်ရန်အတွက် ရှေးဦးစွာ အရှင်အနုရုဒ္ဓါ မထေရ်၏ အဘိဓမ္မတ္ထသင်္ဂဟခေါ် သင်္ဂြိုဟ်ကျမ်းကိုလေ့လာကြရမည်။ ထိုသင်္ဂြိုဟ်ကျမ်းကို ကျေပွန်ပြီဆိုမှ အဘိဓမ္မာတရားတော်တို့ကို သင်ယူ၍ဖြစ်နိုင်မည်ဟု မိန့်ကြားတော်မူပါသည်။ ထိုအခါ ဒါယကာကြီးများက 'ထိုသင်္ဂြိုဟ်ကျမ်းမှာ ပါဠိဘာသာဖြင့်ရေးသားထားသောကြောင့် ဘုရားတပည့်တော်များ သိနားလည်ရန်ခဲယဉ်းပါသည်ဘုရား'ဟု လျှောက်ထားကြပြန်ရာ၊ ဆရာတော်ကြီးက 'သင်္ဂြိုဟ်ကျမ်းကို မြန်မာဘာသာဖြင့်နှုတ်ငုံဆောင်ထားနိုင်ကြစေရန် သံပေါက် လင်္ကာအသွင်ဖြင့်ရေးဖွဲ့ပေးမည်၊ သင်တို့ နှုတ်တက်အာဂုံရအောင်ကြိုးစား၍ ကျက်ကြကုန်၊ ယင်းသံပေါက်လင်္ကာတို့၏အဓိပ္ပာယ်ကိုလည်း ဤတိုက်အတွင်းက ဦးပဏ္ဍိတတို့၊ ဦးကိတ္တိတို့က ရှင်းလင်းပြပေးလိမ့်မည်။ ထိုသူတို့ထံကနာယူကြ'ဟု မိန့်ဆိုတော်မူခဲ့ပါသည်။

ဤသို့သောအကြောင်းတို့ဖြင့် လယ်တီဆရာတော်ကြီးသည် သင်္ဂြိုဟ်ကျမ်းကို ကလေး၊ သူငယ်၊ အိမ်သူ ဒါယိကာမမှစ၍ လူပရိသတ်အပေါင်း လွယ်လင့်တကူနှုတ်တက်အာဂုံရရှိစေ ရန် ရည်သန်လျက်-

၁။ စောထွတ်ဘုန်းလျှံ၊ တရားမွန်၊ သံဃံနမာမိ။

၂။ ပရမတ်သင်္ဂြိုဟ်၊ တတ်မြောက်လို၊ လူပိုလ်တောင်းပန်ဘိ။

၃။ သင်္ဂြိုဟ်ဉာဏ်လောက်၊ အမြန်ရောက်၊ သံပေါက်ဆိုပိမ့်သီ။

၄။ စိတ်,စေတသိက်၊ ရုပ်,နိဗ်လေးရပ်၊ ပရမတ်။

၅။ သိ,ပယ်,ဆိုက်,ပွား၊ လေးပါးကိစ္စ၊ အပိုင်ရ မုချပရမတ်။
၆။ ကာမ,ရူပ၊ အရူပ၊ လောကုတ္တရာ။
၇။ တဏှာတြိ၊ ပိုင်းခြားဘိ၊ ဘူမိစတုဖြာ။
၈။ အကုသယ်နှစ် ဆယ့်ရှစ်အဟိတ်၊ သုံးဆယ်စိတ်၊ ယုတ်နိစ် အသောဘဏတည်း–
အစရှိသော သင်္ဂြိုဟ်သံပေါက်(၆၅၅)ပုဒ်တို့ကို ရေးသားပေးတော်မူပါသည်။*[၁]

အထက်ပါ သင်္ဂြိုဟ်သံခိပ်များကို တစ်ဆင့်မှတစ်ဆင့်ကူးယူကြပြီး ကျက်မှတ်ကြရာ၊ ထိုအခါ မုံရွာတစ်မြို့လုံး လူကြီးလူငယ်မရွေး မည်သည့်နေရာ၌မဆို သံခိပ်ကျက်သံ ရွတ်ဆိုသံတို့ဖြင့် အဘိဓမ္မာအသံ သဲသဲညံခဲ့လေသည်။ သံခိပ်ကျက်ပြီးသူတို့ကို ဦးပဏ္ဍိတ, ဦးကိတ္တိတို့က အကျယ်ချဲ့၍ရှင်းလင်းပြောပြကြပြန်ရာ၊ အရွယ်ကောင်း ရုပ်ရည်ကောင်း အသံအနေကောင်းသော ဦးပဏ္ဍိတတို့, ဦးကိတ္တိတို့၏ သံခိပ်ရှင်းလင်းတရားပွဲကို နာယူလိုကြသော ဒါယိကာမယ်ကလေးများက ထိုအခါက ပို၍ပင်ဖွဲ့ကောင်းကောင်း လယ်တီဆရာတော်ကြီး၏သံခိပ်ကို ကျက်မှတ်ခဲ့ကြသည်။

**နိရုတ္တိဒီပနီ**

လယ်တီဆရာတော်ကြီးသည် မောဂ္ဂလ္လာနသဒ္ဒါကျမ်းကြီး၏အဖွင့် မောဂ္ဂလ္လာနဒီပနီကျမ်းကို မန္တလေးမြို့ စံကျောင်းတိုက်၌ စာချာဘုန်းကြီးဘဝကရေးသားရန် အချက်အလက်များကို စုဆောင်းတော်မူခဲ့ပြီးလျှင်၊ မန္တလေးမြို့ စံကျောင်းတိုက်ကြီး မြောက်ပြင်မီးဘေးသင့်သောအခါ၌ ထိုမောဂ္ဂလ္လာနဒီပနီရေးရန် စုဆောင်းထားသော အချက်အလက်ပါ ပုရပိုက်,စာအုပ်တို့ မီးတွင်းပါဝင်လောင်မြိုက်ပျက်စီးသွားခဲ့ရသည်။ မုံရွာမြို့၌ လယ်တီတိုက်ကြီးတည်ထောင်ပြီးသည့်တိုင် ဆရာတော်ကြီး၏စိတ်၌ မောဂ္ဂလ္လာနဒီပနီကျမ်းကို ရေးသားရန် ဆန္ဒမဖြစ်ပေါ်ခဲ့ပေ။

အရှင်ပဏ္ဍိတ မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံတိုက်သို့သွား၍ သက္ကတဘာသာသင်ယူမည်ဆိုသောအခါ၌ ဤမောဂ္ဂလ္လာနဒီပနီကျမ်း ရေးသားလိုသောဆန္ဒများ ဖြစ်ပေါ်တော်မူလာပြန်ပါသည်။ သို့ဖြစ်၍ အရှင်ပဏ္ဍိတ မန္တလေးမြို့၌ရှိစဉ် မောဂ္ဂလ္လာန်ကျမ်းမူသန့်တစ်စောင်ရရှိရန် ရှာဖွေစေခဲ့သည်။ ထို့ပြင် သီဟိုဠ်သားစာသင်ဖက် အရှင်သီရိဓမ္မ၏အဆက်အသွယ်ဖြင့် သီဟိုဠ်ရှိယင်း၏ဆရာအရှင်ဉပသေနထံမှ သန့်စင်ပြီးဖြစ်သော သီဟဠအက္ခရာရေး မောဂ္ဂလ္လာန်ကျမ်းတစ်စောင်ကိုပါရရှိခဲ့လေသည်။ သို့ဖြင့် အရှင်ပဏ္ဍိတကိုယ်တော် မုံရွာမြို့ လယ်တီတိုက်သို့ရောက်သည်နှင့် ထိုကိုယ်တော်နှင့်အတူပါလာသော မြန်မာမူမောဂ္ဂလ္လာန်ကျမ်းနှင့် သီဟဠမူမောဂ္ဂလ္လာန်ကျမ်းတို့ကို ချက်ချင်းပင်တိုက်ဆိုင်နှိုးနှော၍ မုဒ္ဓဗောဓ၊ အာသုဗောဓစသော သက္ကတသဒ္ဒါကျမ်းများ၊ ပိဋကတ်သုံးပုံပါဠိတော်နှင့်အဋ္ဌကထာများ စသည်တို့ကို အကိုးအကားပြုကာ မောဂ္ဂလ္လာနဒီပနီကျမ်းကို ပါဠိဘာသာဖြင့် လယ်တီဆရာတော်ကြီးရေးသားတော်မူခဲ့ပါသည်။*[၂]

*[၁] လယ်တီဆရာတော်ကြီး၏ ပရမတ္ထသံခိပ်ကျမ်း။ ဗုဒ္ဓသာသနာအဖွဲ့၊ ရန်ကုန်မြို့။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၁)။

*[၂] လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီပါဌ်။ ၁၂၆၇–ခုနှစ်။ (စာမျက်နှာ–၅၊ ၆)။

လယ်တီဆရာတော်ကြီးသည် အရှင်ပဏ္ဍိတ၊ အရှင်ကိတ္တိတို့၏အကူအညီဖြင့် ထိုမောဂ္ဂလ္လာန ဒီပနီကျမ်းကိုပြုစုတော်မူရာ၊ သက္ကရာဇ် ၁၂၆၆–ခုနှစ်၊ ပထမဝါဆိုလ(အေဒီ ၁၉၀၄–ခုနှစ်၊ ဇွန်လ) တွင် ရေးသားပြီးစီးခဲ့လေသည်။*၁ ဤကျမ်း၏အမည်ကို မူလက 'မောဂ္ဂလ္လာနဒီပနီ'ဟု ပေးတော်မူခဲ့ပြီးမှ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးက– 'မောဂ္ဂလ္လာန်ကျမ်းမှာ မြန်မာပြည်၌ အသုံးနည်းသော ကျမ်းဖြစ်သည်။ ဤကျမ်းကို မောဂ္ဂလ္လာနဒီပနီ–ဟုအမည်တပ်လျှင် အသုံးနည်းကျမ်းဖြစ်သွားပေလိမ့်မည်'ဟုမိန့်ဆိုတော်မူသောကြောင့် 'နိရုတ္တိဒီပနီ'ဟုအမည်ပြောင်းလဲပေးတော်မူခဲ့ပါသည်။*၂

ထို့ပြင် လယ်တီဆရာတော်ကြီးသည် ကျမ်းပြုပုဂ္ဂိုလ်ဖြစ်သော မိမိ၏ဘွဲ့အမည်ကိုလည်း နိရုတ္တိဒီပနီပါဠ်နိဂုံး၌ အသီးအခြားဖော်ပြမထားခဲ့သော်လည်း*၃ နောင် နိရုတ္တိဒီပနီနိဿယ ပြုသောအခါ၌ကား ကျမ်းပြုပုဂ္ဂိုလ်၏ဘွဲ့အမည်ကိုပြရာတွင်– 'မုံရွာဂါမေ= ချင်းတွင်းမြစ်ညာ မြို့မုံရွာ၌၊ လယ်တီတိ=လယ်တီဟူ၍၊ ဝိသုတေ= ကျော်စောသော၊ အရညမှိ–အာလယေ= တောကျောင်းတိုက်၌၊ ဝသတာ–ဝသန္တေန= သီတင်းသုံးနေထသော၊ မဟတော–မဟန္တဿ= သော၊ ဘိက္ခု၊ဂဏဿ=၏၊ ဟိတကာရိနာ=ထသော၊ သာရဒဿိနာ=အနှစ်သာရကိုမြင်လေ့ ရှိထသော၊ မယာ=ဉာဏဓဇ–ဉာဏလင်္ကာရအမည်ရှိသော ငါသည်'ဟူ၍ 'အရှင်ဉာဏဓဇ' ဟူသောဘွဲ့၊ 'အရှင်ဉာဏာလင်္ကာရ' ဟူသောဘွဲ့၊ ထိုဘွဲ့မည်နှစ်ရပ်စလုံးကိုပင် ဖော်ပြတော်မူခဲ့ပါသည်။*၄

လယ်တီဆရာတော်ကြီးသည် ဤနိရုတ္တိဒီပနီကျမ်းမတိုင်မီက ကျမ်းပေါင်းများစွာကိုပြုစုခဲ့ပြီးဖြစ်သော်လည်း မိမိစိတ်တိုင်းကျရေးသားခွင့်ရသောကျမ်းဟူ၍ကား ကျမ်းနှစ်ကျမ်းကိုသာ အသိအမှတ်ပြုတော်မူခဲ့ပုံရလေသည်။ ထိုနှစ်ကျမ်းမှာ ပရမတ္ထဒီပနီကျမ်းနှင့် ဤနိရုတ္တိဒီပနီကျမ်း တို့ပင်ဖြစ်သည်။ အကြောင်းမှာ နိရုတ္တိဒီပနီကျမ်းနိဂုံး၌ လယ်တီဆရာတော်ကြီးက 'ဤလောက၌ နေလနှစ်ပါးထွန်းလင်းသကဲ့သို့ ပိဋကတ်သုံးပုံပါဠိတော်တို့၏ အနက်ကိုပြရာဖြစ်သော ဤနိရုတ္တိ ဒီပနီကျမ်းနှင့် ပရမတ္ထတရားတို့၌တင့်တယ်လှသော ပရမတ္ထဒီပနီမည်သော သင်္ဂြိုဟ်မဟာဋီကာ ကျမ်းကြီးနှစ်စောင်တို့သည် ဤလောက၌ သာသနာတည်သရွေ့ကာလပတ်လုံး တည်ထွန်းပါစေ သတည်း'ဟူသော အာသီသပတ္ထနာပြုစကားကို အောက်ပါအတိုင်းဂါထာဖွဲ့ဆိုထားသောကြောင့် ဖြစ်ပါသည်။*၅

---

*၁ လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီပါဠ်။ ၁၂၆၇–ခုနှစ်။ (စာမျက်နှာ–၃၉၅)။

*၂ လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီ။ ဗုဒ္ဓသာသနအဖွဲ့၊ ရန်ကုန်မြို့။ ၁၉၇၀–ပြည့်နှစ်။ (စာမျက်နှာ–ခေါ်)။

*၃ မုံရွာ ဂါမေ အရညမှိ၊ လယ်တီတိ ဝိသုတာလယေ။
ဝသတာ မဟတော ဘိက္ခု–ဂဏဿ ဟိတကာရိနာ– ယင်း။ (စာမျက်နှာ–၅၆၄)။

*၄ လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီကျမ်း၏ နိဿယနံကျဉ်း။ ကဝိမျက်မှန်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၇–ခုနှစ်။ (စာမျက်နှာ–၂၀၂)။

*၅ လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီပါဠ်။ ၁၉၇၀–ပြည့်နှစ်။ (စာမျက်နှာ–၅၆၄)။

ယထာ လောကမှိ ဇောတန္တိ၊ ဥဘော စန္ဒိမသူရိယာ။

တထေဝ ပါဠိယတ္တေသု၊ အယံ နိရုတ္တိဒီပနီ။

ပရမတ္ထေသု သာသုဘာ၊ ဋီကာ ပရမတ္ထဒီပနီ။

ဥဘော လောကမှိ ဇောတေန္တု၊ သဒ္ဒမ္ဘော ယာဝ တိဋ္ဌတီတိ။

ဤနိရုတ္တိဒီပနီကျမ်းသည် အရှင်မောဂ္ဂလ္လာနမထေရ်၏ မောဂ္ဂလ္လာနဗျာကရဏခေါ် သဒ္ဒါကျမ်းကိုဖွင့်ဆိုထားသည်ဟုဆိုသော်လည်း မောဂ္ဂလ္လာန်ကို တိုက်ရိုက်ဖွင့်ပြသောကျမ်းမျိုးမဟုတ်ဘဲ မောဂ္ဂလ္လာန်ကျမ်း၏ကောင်းမြတ်သောအဆီအနှစ် သဒ္ဒါအစီအရင်များကိုသာယူ၍ ဤနိုင်ငံ၌ သင်ကြားပို့ချနေသောအလေ့အထနှင့် သင့်လျော်သောသဒ္ဒါဝေါဟာရ၊*၁ အစီအစဉ်၊*၂ သုတ်အစီအရင်များကို ပြောင်းလွှဲပြင်ဆင်ခြင်း၊*၃ မလိုအပ်သည်တို့ကိုပယ်ဖျက်ခြင်း၊*၄ လိုအပ်ရာ၌ဖြည့်စွက်ခြင်း*၅-စသည်ဖြင့် များစွာပြုပြင်၍ ဤကျမ်းကိုရေးသားတော်မူခြင်းဖြစ်သည်။

ထို့ပြင် ဤနိရုတ္တိဒီပနီကျမ်းတွင် ရှေးရှေးကပေါ်ပေါက်ခဲ့သောသဒ္ဒါကျမ်းကြီးများ၌ မပြနိုင်ခဲ့သော ပြယုဂ်ထူးများကို ပါဠိတော်များမှထုတ်နုတ်၍တင်ပြနိုင်ခြင်း၊ သဒ္ဒပိန္နိစ္ဆယစသည်တို့ကို ထည့်သွင်းပြထားခြင်းမျိုးလည်းရှိသည်။ အချို့ အသိခက်သော သုတ်,ဝုတ္တိ,ပြယုဂ်တို့၏ အနက်အဓိပ္ပာယ်တို့ကို လေ့လာသူတို့သိသာထင်ရှားအောင် ရှင်းလင်းပြဆိုထားချက်များကိုလည်း တွေ့ရသည်။ နိရုတ္တိဒီပနီကျမ်း၏အထူးခြားဆုံးအချက်မှာ နိကာယ်ငါးရပ်ပိဋကတ်သုံးပုံပါဠိတော်တို့ကိုမွှေနှောက်ပြီး ဥဒါဟရုဏ်ပုံစံပြယုဂ်များကို စုံနိုင်သမျှစုံအောင် ထုတ်ဆောင်၍ပြထားသည့်အတွက် ဤနိရုတ္တိဒီပနီကို တိပိဋကသဒ္ဒါကျမ်းကြီးအဖြစ်တွေ့ရခြင်းပင်ဖြစ်သည်။*၆

---

*၁ သဒ္ဒါဝေါဟာရပြောင်းလဲရာ၌ မောဂ္ဂလ္လာန်သဒ္ဒါလာ 'သညာဒိကဏ္ဍ၊ သျာဒိကဏ္ဍ' စသည်ကို နိရုတ္တိဒီပနီ၌ 'သန္ဓိကဏ္ဍ၊ နာမကဏ္ဍ(ကာရက)'ဟု ပြောင်းလဲခေါ်ဝေါ်ခြင်းမျိုးဖြစ်သည်။

*၂ မောဂ္ဂလ္လာန်ကျမ်း၌ နာမ်ကာရကတို့ကိုရောနှောကာ သျာဒိကဏ္ဍ၌ တပေါင်းတည်းပြသည်။ နိရုတ္တိဒီပနီ၌ နာမကဏ္ဍ, ကာရကကဏ္ဍ-ဟု ကဏ္ဍတစ်ခုစီ သီးသန့်ခွဲ၍ပြခြင်းမျိုးဖြစ်သည်။

*၃ မောဂ္ဂလ္လာန်၌ သုတ်စဉ်(၂၈)လာ န ဒွေဝါသုတ်အပြီး၌ သုတ်စဉ်(၂၉) ယုဝဏ္ဏေ န မေဩလုတ္တာသုတ်ကိုပြသော်လည်း၊ နိရုတ္တိဒီပနီ၌ သုတ်စဉ်(၂၈) န ဒွေဝါ သုတ်အပြီး၌ သုတ်စဉ်(၂၉) ပရသရသ-ဟူ၍ မောဂ္ဂလ္လာန်သုတ်စဉ်(၄၀)ကို ယူ၍ပြထားသည်။ မူလသုတ်စဉ်(၂၉) ယုဝဏ္ဏာ န မေဩလုတ္တာသုတ်ကို နိရုတ္တိဒီပနီကျမ်း၌ သုတ်စဉ်(၃၆)သို့ရောက်မှ ဖော်ပြထားခြင်းမျိုးဖြစ်သည်။

*၄ မောဂ္ဂလ္လာန်ပဥ္စမပိုင်း သုတ်စဉ်(၉)၌ ဣယုဝဏ္ဏာဈလာ နာမဿန္တေ-ဟုရှိရာ 'ယုဝဏ္ဏ'ဆိုလျှင် 'ဣဝဏ်, ဥဝဏ်'သိပြီးဖြစ်သဖြင့် မူလသုတ်၌ ရှေ့ဆုံးက 'ဣ'မှာ အပိုဖြစ်နေ၍ နိရုတ္တိဒီပနီ၌ 'ယုဝဏ္ဏ ဈလာ နာမဿန္တေ'ဟု ပြုပြင်၍ သုတ်စဉ်(၁၂)အဖြစ် ပြခြင်းမျိုးဖြစ်သည်။

*၅ မောဂ္ဂလ္လာန်သဒ္ဒါ ဏာဒိကဏ္ဍ၊ သုတ်စဉ်(၁၂၃)၌ 'လောပ'ဟုသုတ်ရှိရာ၊ ရှေးရှေး၌လည်း 'လောပ'ဟူသော သုတ်မျိုး ရှိခဲ့ပြီးဖြစ်၍၊ ယုံမှားခြင်း သန္ဒေဟကင်းစေရန် ဤနေရာ၌ 'ပစ္စည်း'ကိုချေရမည့် လောပဖြစ်ကြောင်း ရှင်းလင်းစွာသိစေရန် နိရုတ္တိဒီပနီ တဒ္ဓိတကဏ္ဍ၊ သုတ်စဉ်(၅၅၄)၌ 'ပစ္စယာနံ လောပေါ'ဟု ရှင်းလင်းစွာဖော်ပြထားခြင်းမျိုးဖြစ်သည်။

*၆ လယ်တီဆရာတော်ကြီး၏နိရုတ္တိဒီပနီပါဌ်။ ၁၉၇၀-ပြည့်နှစ်။ (စာမျက်နှာ- ခါး-ယဏ္ဍ)။

**အဌတိ သတိမဝါဆိုတော်မူခြင်း**

လယ်တီဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၆၅–ခုနှစ် ဝါတွင်းကာလ (အေဒီ ၁၉၀၃–ခုနှစ်၊ ဇူလိုင်လ)သို့ရောက်သောအခါ နှစ်ပေါင်းများစွာကပင်ကြံစည်လာခဲ့သော နိရုတ္တိဒီပနီကျမ်းကြီးကိုလည်း ရေးသားပြီးစီးအောင်မြင်ခဲ့ပြီဖြစ်ပြီး၊ တပည့်ရင်းအရှင်ပဏ္ဍိတလည်း မိမိထံတော်ပါး၌ရောက်ရှိနေပြီဖြစ်၍ ထိုနှစ် ဝါတွင်းကာလကို ချင်းတွင်းမြစ်အနောက်ဘက်ကမ်းရှိ လက်ပတောင်းတောင်တွင်ကပ်ဆိုရန် အစီအစဉ်ပြုလုပ်ခဲ့သည်။ ဤသို့ လက်ပတောင်းတောင်၌ လယ်တီဆရာတော်ကြီးသီတင်းသုံးတော်မူအံ့ဟု ကြေညာသည်နှင့် မုံရွာမြို့နေ အမိန့်တော်ရ မောင်ကြော့၊ မောင်စံလင်းတို့က ဝါဆိုစကြံကျောင်း တစ်ဆောင်ကို ဆရာတော်ကြီးမကြွရောက်မီကပင် ကြိုတင်ဆောက်လုပ်ထားကြပြီး ဆရာတော်ကြီးအားလှူဒါန်းခဲ့ကြ၏။*၁ သို့ဖြင့် လယ်တီဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၆၅–ခုနှစ် ဝါတွင်းကာလတွင် မိမိ၏ (၃၈)ကြိမ်မြောက် အဌတိသတိမဝါကို လက်ပတောင်းတောင် စင်္ကြံကျောင်း၌ ကပ်ဆိုတော်မူခဲ့ပါသည်။

**လက်ပတောင်းတောင်**

လက်ပတောင်းတောင်သည် ချင်းတွင်းမြစ်အနောက်ဘက်ကမ်း ဆားလင်းကြီးမြို့နယ်အတွင်း တည်ရှိသည်ဖြစ်၍ မုံရွာမြို့မှသော် ချင်းတွင်းမြစ်ကိုဖြတ်၍သွားရသည်။*၂ ချင်းတွင်းမြစ်အနောက်ဘက်ကမ်းတွင် လက်ပတောင်းတောင်အပါအဝင် ချင်းတွင်းမြစ်ကမ်းကိုယှဉ်လျက် စပယ်တောင်၊ မြရိပ်တောင်၊ ကြေးစင်တောင်၊ ကျောက်မျက်တောင်၊ ရွှေဘုံသာတောင်၊ ဖိုလ်ဝင်တောင်–စသည်ဖြင့်တောင်များရှိပြီး၊ ယင်းတောင်များသည် ရှေးအခါ မီးတောင်ကြီးများဖြစ်ခဲ့ကြသည်။*၃ ဤတောင်များတွင် လက်ပတောင်းတောင်သည် တောင်သုံးလုံး ဖိုခနောက်ဆိုင်နေဟန်ရှိပြီး တောင်ကြောကြီးနှင့် တောင်လယ်လျှိုမြောင်များပါရှိသည်။ ရှေးစာတို့အရ ဤလက်ပတောင်းတောင်တွင် တောင်ထွတ်ပေါင်း(၃၃)လုံးရှိကြောင်းသိရသည်။ တောင်ကုန်းတောင်တန်းများ၏ဆင်ခြေလျောတွင် ဆူးချုံ၊ ချုံနွယ်–စသော သဘာဝပေါက်ပင်များပေါက်ရောက်နေပါသည်။ လက်ပတောင်းတောင်သည် အရှေ့ဘက်တွင် ချင်းတွင်းမြစ်ကြီး ကာဆီးထားပြီး၊ မြောက်ဘက်၌ ညောင်ပင်ကြီးဆိပ်ကမ်း၊ အနောက်မြောက်တွင် ကျော်ရွာ၊ တောင်ပလူရွာ၊ အနောက်ဘက်တွင် မိုးကြိုးပြင်ရွာ၊ တောင်ဘက်တွင် တုံရွာ၊ ဖောင်းကတာ၊ ဆားထုံး၊ ဆားလင်းကြီး–စသောရွာများဝန်းရံလျက်ရှိလေသည်။

လက်ပတောင်းတောင်ပေါ် လယ်တီဆရာတော်ကြီး ဝါကပ်သီတင်းသုံးတော်မူရာဌာနတွင် တောင်၏ အနောက်မြောက် ကျော်ရွာ၊ တောင်ပလူရွာတို့ကို ဂေါစရဂါမ်ဆွမ်းခံရွာအဖြစ် သတ်

---

*၁ လယ်တီဆရာတော်ကြီး၏ ကမ္ဘဋ္ဌာနဒီပနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၀–ပြည့်နှစ်။ (စာမျက်နှာ–၁၅၅)။ လယ်တီဦးလုပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၃၉)။

*၂ ယခုအခါ ချင်းတွင်းတံတားဆောက်လုပ်ပြီးဖြစ်၍ ထိုတံတားမှ ကူးဖြတ်သွားလာနိုင်ပြီဖြစ်သည်။

*၃ ဦးသန်းထွန်းအောင်၏ မိုးကြိုးပြင်မှ ကျောက်လက်နက်များနှင့် မုံရွာခရိုင်မှ ကျောက်လက်နက်များ သုတေသနပြုလေ့လာခြင်း။ ပညာရေးဝန်ကြီးဌာန၊ ရန်ကုန်မြို့။ ၂၀၀၂–ခုနှစ်။ (စာမျက်နှာ–၄)။

မှတ်ထားသည်ဖြစ်၍ ထိုရွာတို့နှင့်မဝေးကွာလှသော တောင်ကြောတောင်ကြားအတွင်းတွင် ဖြစ်သည်။ ဤနှစ်ဝါဆိုသောအခါ လယ်တီဆရာတော်ကြီးနောက်တော်ပါးမှပါလာသောပုဂ္ဂိုလ်တို့တွင် အရှင်ပဏ္ဍိတ၊ အရှင်ကိတ္တိ၊ လက်ပတောင်းတောင်၏တောင်ဘက် ဆားထုံးရွာမှ အဘိဓမ္မာကြီးဦးရောင်နီ၊ ရန်ကုန်မြို့ ပုဇွန်တောင် တောင်လုံးပြန်ရပ်နေ ဓာတ်ဆရာကြီးဦးမြို့တို့ ဖြစ်ကြသည်။ အထူးအားဖြင့် လက်ပတောင်းရွာ*၁ မစိုးရိမ်ကျောင်းဘုန်းကြီးအရှင်ကေသရမှာ လယ်တီဆရာတော်ကြီးအား အထူးကြည်ညိုသူဖြစ်၍ ဆရာတော်ကြီး လက်ပတောင်းတောင်၌ နေတော်မူစဉ်အတွင်း များစွာစောင့်ရှောက်တော်မူခဲ့ပါသည်။

မိုးကြိုးပြင်ရွာစသည်သို့

လယ်တီဆရာတော်ကြီးသည် လက်ပတောင်းတောင် ဝါဆိုစကြံကျောင်း၌ သီတင်းသုံးနေစဉ်အတွင်း ရံခါ တောင်တော်၏အနောက်ဘက်ရှိ မိုးကြိုးပြင်ရွာ*၂ ဘက်သို့လည်းကြွရောက်၍ ဆွမ်းခံတော်မူပါသည်။ မိုးကြိုးပြင်ရွာသည် ယာတဲကလေးအနည်းငယ်သာရှိပြီး တောင်ယာအလုပ်ဖြင့်အသက်မွေးသူများသဖြင့် အလွန်ဆင်းရဲကြရာ၊ ထိုယာသမားရွာသားတို့အားချီးမြှောက်လို၍ ဆရာတော်ကြီးကြွတော်မူခြင်းဖြစ်သည်။ ရံခါ၌ မိုးကြိုးပြင်ရွာမှတစ်ဖန် လက်တောင်းကြီး*၃ ရွာအထိ ရွာငယ်များကို အစဉ်အတိုင်းဖြတ်သန်းကြွရောက်တော်မူကာ လက်တောင်းကြီးရွာသူရွာသားများအား တရားချီးမြှင့်တော်မူခဲ့ပါသည်။

ဖိုလ်ဝင်းတောင်သို့*၄

လက်ပတောင်းတောင်ကြောမှသည် လယ်တီဆရာတော်ကြီးသည် ဖိုလ်ဝင်းတောင်ဘက်သို့ ကြွတော်မူကာ ဘုရားဖူးခြင်း၊ တရားဘာဝနာရှုမှတ်ခြင်း၊ လူသူတော်တို့နှင့် တရားဘာဝနာစကားမိန့်ကြားခြင်းများပြုတော်မူခဲ့ပါသည်။ ဤသို့ ဖိုလ်ဝင်းတောင်၌ သီတင်းသုံးနေစဉ် လက်ပတောင်းရွာဘုန်းကြီး အရှင်ကေသရနှင့်အတူလိုက်ပါလာသော မောင်ညွန့်*၅ ဆိုသူ လူသူတော်ကိုလည်း တွေ့ဆုံခဲ့ရဟန်ရှိပါသည်။*၆

---

*၁ စစ်ကိုင်းတိုင်း၊ မုံရွာခရိုင်၊ ဆားလင်းကြီးမြို့နယ်၌ပါဝင်သည်။

*၂ စစ်ကိုင်းတိုင်း၊ မုံရွာခရိုင်၊ ဆားလင်းကြီးမြို့နယ်၌ပါဝင်သည်။

*၃ စစ်ကိုင်းတိုင်း၊ မုံရွာခရိုင်၊ ပုလဲမြို့နယ်၌ပါဝင်သည်။

*၄ စစ်ကိုင်းတိုင်း၊ မုံရွာခရိုင်၊ ယင်းမာပင်မြို့နယ်၊ မင်းဇုးကျေးရွာ၌တည်ရှိသည်။

*၅ နောင်အခါ ပညာနေတ္တိဝိပဿနာကျမ်းပြုဖြစ်ပြီး၊ မုံရွာမြို့အရှေ့ဘက် အရာတော်နှင့် မြင်းမူနယ်စပ်ရှိ မလဲသာရွာ ပဒတ္တိုင်းဇာတိ ဝိပဿနာဆရာကြီးဦးညွန့်ဟူ၍ ထင်ရှားပါသည်။ မုံရွာမီဒီယာ၏ ရွှေတောင်ဦးတောင် လယ်တီလိုဏ်ဂူ။ မဏိရတနာစာပေ၊ ရန်ကုန်မြို့။ ၂၀၀၆-ခုနှစ်။ (စာမျက်နှာ-၃၃)။

*၆ ထိုသို့ လယ်တီဆရာတော်ကြီးနှင့် ဆရာကြီးဦးညွန့်တို့တွေ့ဆုံကြစဉ် တရားစကားဆွေးနွေးကြရာတွင် လယ်တီဆရာတော်ကြီးက စိတ်ဆိုးကြောင်းများကို အချို့ကရေးသားကြပါသည်။ စင်စစ် ထိုအချိန်က လယ်တီဆရာတော်ကြီးမှာ သက်တော်ဝါတော်ကြီးရင့်ပြီး ပရိယတ်ပဋိပတ်ဘက်၌ ကျနသေချာသောဆရာတော်ကြီးဖြစ်သဖြင့် တော်ရုံလူမျိုးပင် အနားကပ်ဖို့အခွင့်နည်းပါးပြီး တရားစကားဆွေးနွေးခွင့်ရဖို့ဆိုသည်မှာ ခဲယဉ်းလှပေသည်။ များသောအားဖြင့် ဆရာတော်ကြီးဟောကြားသောတရားကိုသာ ရိုသေစွာနာယူကြရသောခေတ်အခါမျိုးဖြစ်သည်။



ချင်းတွင်းမြစ်အနောက်ဘက်ရှိ လက်ပတောင်းတောင်တန်း



လက်တောင်းကြီးရွာ



မိုးကြိုးပြင်ရွာ



ဖိုလ်ဝင်တောင်ရှခင်း

ပိဋကတ်အစွယ်ထောင်သူ

လယ်တီဆရာတော်ကြီးသည် လက်ပတောင်းတောင်၌ ဝါကပ်သီတင်းသုံးနေတော်မူစဉ် လူသူတော်များနှင့် တရားစကားပြောဆိုခဲ့ရပြီး၊ ထိုပုဂ္ဂိုလ်တို့အချင်းချင်း တရားစကားပြောသံ ဆိုသံတို့ကိုလည်း နားဆင်တော်မူခဲ့ရပါသည်။ ထိုအခါ အချို့သောပုဂ္ဂိုလ်တို့သည် တရားတော်နှင့် စပ်၍ စာတွေ့လက်တွေ့မရှိကြပါဘဲ မိမိတို့တတ်သိထားသမျှကိုသာ ရွတ်ကာဖတ်ကာဖြင့် အနိုင်လု ပြောဆိုကြသည်။ အချို့ကမူ မသိသည်ကိုပင်အသိလုပ်၍ တတ်ယောင်ကားအသွင်ဖြင့် ထင်မိ ထင်ရာ ရောက်တိရောက်ရာဟောပြောကြသည်။ ဤသို့ စိတ်နေဖြောင့်စင်း ရိုးသားမှု ကင်းကြပုံကို တွေ့မြင်တော်မူသောအခါဝယ် တပည့်ရင်း အဘိဓမ္မာဆရာ ဒကာရောင်နီအား အမှူးထား၍ ပိဋကတ်အစွယ်ထောင်သူ သင်္ဂြိုဟ်ဆရာ,ပရမတ်ဆရာ,တရားဆရာတို့အားဆုံးမသော တေးထပ် တစ်ပုဒ်ကို အောက်ပါအတိုင်းရေးစပ်တော်မူခဲ့ပါသည်။

တပိုင်းကြောင်ကျက်စာရရုံနှင့်၊ ခက်ပါလှသဘောဉာဏ်။
ထက်မာနအပြောသန်တယ်၊ ဒေါသမာန်ထူပွား။
စောဒကတုဘက်လာလျှင်၊ သူ့ထက်ငါငြင်းတဲ့လူစား။
ဘုရားဟောဓမ္မက္ခန်ကို၊ တတ်လေဟန်ယောင်ဝါး။
ပရမတ်ပြန် အကြောင်းသမားတွေတို့၊ ထောင်လွှားကြသူ့ထက်ငါ။
အသိဉာဏ်တထွာလောက်ကယ်နှင့်၊ ညှာမထောက်ဟောတတ်လှပါ။
ပရိသတ်ထောမနာအောင်၊ စောဒနာဉာဏ်အကောက်တွေနှင့်။
ကန်အကြောက် အတင်းမရှောင်၊ ငြင်းကြလူ့ဘောင်။
ပိဋကတ်အစွယ်ထောင်လျှင် အပါယ်ဘောင်ဆင်းရလိမ့်လေး။ ။ဟူ၍ဖြစ်သည်။[*၁]

လူဝိဇ္ဇာတို့လာကြခြင်း

လယ်တီဆရာတော်ကြီး လက်ပတောင်းတောင်၌ ဝါကပ်သီတင်းသုံးနေစဉ်အတွင်း လူသူတော်တို့သာမက လူဝိဇ္ဇာတို့လည်း လာရောက်ဆည်းကပ်ကြကြောင်း သိရသည်။ ဤ အကြောင်းနှင့်စပ်၍ နောင်အခါ လယ်တီဦးဝဏ္ဏိတက မှတ်တမ်းရေးသားထားသည်မှာ အောက်ပါ အတိုင်းဖြစ်သည်။

အဆိုပါတောင်ခြေ သလ္လာဝတီမြစ်ကမ်းစ၌ နေ့သန့်စင်ရန် ယာယီဆောက် လုပ်ထားသော ကွပ်ပျစ်ကြမ်းစင်ပေါ်တွင် ညနေအေးအချိန် ရေကသိုဏ်းကြည့်ရှု တော်မူပြီး၍ ခေတ္တအနားယူနေစဉ် ညစ်ထေးဟောင်းနွမ်းသောအဝတ်နှင့် လူတစ် ယောက်သည် ဆရာတော်ဘုရားကြီး၏ခြေတော်ရင်းသို့လာ၍ ရှိခိုးဝတ်ချပြီးလျှင် မိမိလွယ်အိတ်ထဲမှ တစ်စုံတစ်ခုထည့်ထားသောပုလင်းကိုထုတ်၍–

---

[*၁] လယ်တီဆရာတော်ကြီး၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၁၂၁)။

'ဆရာတော်ဘုရားသည် တစ်ကမ္ဘာလုံးအနှံ့အပြား သာသနာပြုမည့်ပုဂ္ဂိုလ် ဖြစ်ပါလိမ့်မည်၊ ထိုအခါ အနာရောဂါကင်းရှင်း၍ ခန္ဓာကိုယ်တောင့်တင်းခိုင်မာမှသာ သာသနာပြုလုပ်ငန်းကြီး တွင်ကျယ်ပါမည်၊ သို့အတွက် ဆရာတော်အား ပြာများလှူလိုပါသည်ဘုရား'

ဟုလျှောက်ကြားရာ ဆရာတော်ဘုရားကြီးသည် ဂရုမစိုက် အမှုမထားသလို 'မင့်ပြာက စားဖို့လယ်ပြာလားကွဲ့'ဟု မိန့်တော်မူလိုက်သောအခါ ၎င်းလူသည် ဆရာတော်ဘုရားကြီးက ငါ့ကို အထင်သေးအမြင်သေးနှင့် အလကားအကောင် အချောင်သမားဟု မှတ်ထင်တော်မူပါတကားဟု မိမိအစွမ်းကိုပြလို၍–

ရုတ်တရက် ဆရာတော်ဘုရားကြီးရှေ့ မျက်မှောက်တွင် တင်ပလ္လင်ခွေပြီး သလ္လာဝတီရေပြင်သို့ခုန်ချလိုက်ရာ ရေပြင်ပေါ်တွင် ဗူးတောင်း, ဘောလုံးများကဲ့သို့ မနစ်မမြုပ်ဘဲ ပေါလောပေါ်လျက် ထုံးစံအတိုင်း အောက်သို့မစုန်ဆင်းဘဲ အထက်အညာသို့ တဖြည်းဖြည်းဆန်တက်၍ မျက်စိတဆုံး ကြည့်ရင်းကြည့်ရင်းနှင့် ကွယ်ပျောက်သွားသော–ဟူ၏။

၎င်းအကြောင်းကို ဆရာတော်ဘုရားကြီးက တပည့်ပဏ္ဍိတနှင့် ဦးနာဂ, ကပ္ပိယ မောင်ရွှေအောင်တို့အား ဤလူထူးအကြောင်းကို မိန့်ကြားတော်မူရာ တပည့်များက သာမညပုဂ္ဂိုလ် ဟုတ်မည်မထင်၊ နတ်သော်လည်းကောင်း, ဝိဇ္ဇာသော်လည်းကောင်း, ဇော်ဂျီသော်လည်းကောင်း, တန်ခိုးကြီးသောပုဂ္ဂိုလ်သော်လည်းကောင်း ဖြစ်ပါလိမ့်မည်–ဟု လျှောက်ကြားကြ၏။*၁

**ဆွမ်းခံတရား**

လက်ပတောင်းတောင်၌ လယ်တီဆရာတော်ကြီးသီတင်းသုံးနေတော်မူစဉ် နေ့စဉ် ဆွမ်းခံချိန်ရောက်လျှင် လယ်တီဆရာတော်ကြီးကရှေ့ဆောင်လျက် နောက်တော်ပါးမှ အရှင်ကိတ္တိ၊ အရှင်ပဏ္ဍိတတို့က ဝါစဉ်အတိုင်းလိုက်ပါ၍ ဆွမ်းခံထွက်တော်မူလေ့ရှိပါသည်။

တစ်နေ့သော် လက်ပတောင်းတောင်ပေါ်မှ တစ်တိုင်ခွဲ(၃–မိုင်)အကွာတောင်ခြေရှိ ကျော်ရွာသို့ ဆွမ်းခံကြွကြရာ၊ အရှင်ပဏ္ဍိတသည် နောက်ဆုံးမှ ဖြည်းဖြည်းလိုက်ပါလာ၏။ ဆရာတော်ကြီးက ဆွမ်းခံကြွတော်မူရင်း ရှင်ပဏ္ဍိတကိုခေါ်တည်၍ မဇ္ဈိမနိကာယ်၊ ပဏ္ဏာသပါဠိတော်လာ မာဂဏ္ဍိယသုတ်(မ၊ ၂။ ၁၆၉)ကို ဟောတော်မူခဲ့ပါသည်။ မာဂဏ္ဍိယသုတ်မှာ မာဂဏ္ဍိယပုဏ္ဏားအား ဘုရားရှင်က ခန္ဓာကိုယ်ကောင်ကြီး၏အပြစ်ကိုအကျယ်ဟောပြသောသုတ္တန်ပါဠိတော်ကြီး ဖြစ်သည်။

သို့နှင့် လယ်တီဆရာတော်ကြီးသည် ရှေ့ဆုံးကတောင်ကြောလမ်းအတိုင်း ဖြည်းဖြည်း ကြွတော်မူလာရင်း–

*၁ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၄၈၊ ၄၉)။



လက်ပတောင်းတောင်ကြားတောရ





လယ်တီဆရာတော်ကြီးဆွမ်းခံကြွရာ တောင်ပလုရွာနှင့် ကျော်ရွာ



လယ်တီဆရာတော်ကြီးတရားချီးမြှင့်ရာ ညောင်ပင်ကြီးဆိပ်

'ခန္ဓာကိုယ်ကောင်ကြီးဟာ ရောဂါအိမ်ကြီးဖြစ်တယ်၊ သူ့ကို နုနုနယ်နယ်နှင့် မွေးကျွေးထားလျှင် ရောဂါတွေများကုန်ရော့၊ အပြင်ပကလာတဲ့ရောဂါတွေထက် အတွင်းကပါတဲ့ရောဂါက သာ၍ဆိုးတယ်၊ မျက်စိမှာဖြစ်တဲ့လောဘမှာ မျက်စိရောဂါ စွဲကပ်ခြင်းကိုဖြစ်စေတယ်၊ နားမှာဖြစ်တဲ့ ဒေါသ, မောဟတို့မှာလည်း နားရောဂါတွေဖြစ်စေတယ်၊ အဲသည်ရောဂါတွေကို မပွားရအောင် ခန္ဓာကိုယ်ကို အလိုမလိုက်ရဘူး'

စသည်ဖြင့် အကျယ်တဝင့် ခန္ဓာကိုယ်၏အလိုသို့မလိုက်ရန်ဟောကြားတော်မူရင်း ဆွမ်းခံရွာနှင့်ကျောင်းစပ်ကြား တောင်ကြားလမ်းနှစ်မြွာသို့ရောက်လေရာ၊ ဆရာတော်ကြီးသည် ရတ်တရက်ဆွမ်းခံရမည့် ကျော်ရွာသို့သွားရာလမ်းမဟုတ်ဘဲ အခြားတောင်ကြားလမ်းတစ်ဖက်သို့ ကြွသွားမိလေသည်။ နောက်တော်မှလိုက်ပါလာသော အရှင်ပဏ္ဍိတက 'အရှင်ဘုရား၊ သည်လမ်းမဟုတ်ပါဘုရား၊ သည်ဘက်လမ်းဖြစ်ပါသည်ဘုရား'ဟု လှမ်း၍လျှောက်ထားခဲ့လေသည်။

ထိုအခါ ဆရာတော်ကြီးသည် ခေတ္တရပ်၍ လမ်းနှစ်မြွာကိုကြည့်ရှုတော်မူပြီး–

'ဟဲ့–ပဏ္ဍိတ၊ နင်က ငါ့ကို လမ်းပြစကားလျှောက်ထားတယ်၊ ငါဟောတဲ့တရားကိုတော့ ဘာမျှအာရုံမခံဘူး၊ ကြံမိကြံရာ ငါ့နောက်ကလိုက်လာတယ်။ လမ်းမှားသွားသဖြင့် ဆွမ်းတစ်ထပ်တော်ရုံမျှရှိတော့မပေါ့။ ငါဟောတဲ့တရားမျိုး မနာယူမိသဖြင့် တစ်သံသရာလုံး လမ်းမှားလာတာ နင်သိရဲ့လား၊ ငါကတော့ ဂရုတစိုက်တရားတွေဟောလာလိုက်လို့၊ သူကတော့ ဆွမ်းခံလမ်းကိုစွဲလန်းနေတာ'–စသည်ဖြင့် ဆိုဆုံးမတော်မူပါတော့သည်။

အရှင်ပဏ္ဍိတလည်း ဘာမျှပြန်မလျှောက်ဘဲ ဆရာတော်ကြီးနောက်ပါးမှ အသာခို၍လိုက်လာပြီး ကျော်ရွာတွင်ဆွမ်းခံ၊ ဆွမ်းခံပြီးကျောင်းသို့ပြန်ရောက်၊ ကျောင်းရောက်၍ ဆွမ်းဘုဉ်းပေးပြီးလတ်သော် ဆရာတော်ကြီးက အရှင်ပဏ္ဍိတအားညွှန်းလျက်–

'ဒီအကောင် ဝိပဿနာသံကြားရင် နားခါးတတ်တဲ့အလေ့ရှိတယ်၊ ဝိပဿနာတရားကို မှတ်မှတ်သားသား ဘာမှမရှိဘူး၊ ခန္ဓာကိုယ်အလိုလိုက်ရတာက မင်းသမီးကလေးလိုပဲ၊ နင့်ဉာဏ်ပက်စက်ကလေးနှင့် နိဗ္ဗာန်နှင့်ဖီလာကန့်လန့်ကြီး၊ သွား–သည်ယနေ့ မုံရွာလယ်တီတိုက်သို့ပြန်၊ ငါ့ထံမှာမနေနှင့်၊ ဝိပဿနာအလုပ်လုပ်ရာမှာ ညစ်ပုပ်တဲ့ဉာဥ်ဝသီကို ငါမသတီဘူး'–ဟု မိန့်ဆိုတော်မူခဲ့ပါသည်။ အရှင်ပဏ္ဍိတသည် ဆရာတော်ကြီး၏အမိန့်အတိုင်း ညနေချမ်းတွင် သပိတ်သင်္ကန်း စသည်ယူ၍ မုံရွာသို့ပြန်လာရသည်။

အရှင်ပဏ္ဍိတမှာ ပကတိစိတ်ရင်းနုနယ်သူဖြစ်၍ ဆရာသမား၏ပြောဆိုမှုခံရသည်မှအဆုံးနှင့်ချခံခဲ့ရသည်တို့ကို စိတ်မချမ်းသာခဲ့ပေ။ သို့သော် ရက်များမကြာမီမှာပင် ဆရာတော်ကြီးအမိန့်ဖြင့် အရှင်ပဏ္ဍိတသည် တောကျောင်းသို့ပြန်လည်ရောက်ရှိလာရပြန်ပါသည်။

ဤသို့ တောကျောင်းနေစဉ် အရှင်ပဏ္ဍိတအား ဝိပဿနာတရားနှင့်ရင်းနှီးစေရန် ဆရာတော်ကြီးက မိမိဆွမ်းခံသောရွာများရှိ တရားနာပရိသတ်တို့အား မိမိကိုယ်တော်စား ဝိပဿနာတရားတို့ကို အရှင်ပဏ္ဍိတအားဟောပြောစေခဲ့ပါသည်။*၁

ညောင်ပင်ကြီးဆိပ်တရားပွဲ

လယ်တီဆရာတော်ကြီးသည် လက်ပတောင်းတောင်၌ သီတင်းသုံးနေတော်မူစဉ် ချင်းတွင်းမြစ်ကမ်းအနီးရှိကျေးရွာများမှ တရားနာရန်အပင့်လာကြလျှင် ဆရာတော်ကြီးက ထိုကျေးရွာသူရွာသားတို့အား ချီးမြှောက်သောအနေဖြင့် တရားပွဲပြုလုပ်ဟောပြောတော်မူလေ့ရှိပါသည်။

တစ်ခါသော် ချင်းတွင်းမြစ်အစပ် ညောင်ပင်ကြီးဆိပ်ရွာက တရားနာလိုကြကြောင်းကို လက်ပတောင်းဘုန်းကြီးဦးကေသရထံမှတစ်ဆင့် အပင့်လာကြ၏။ ထိုညက ဆရာတော်ကြီးသည် လက်ပတောင်းရွာကျောင်းတွင်ခေတ္တသီတင်းသုံးပြီး ညောင်ပင်ကြီးဆိပ်ရွာ၌ ညတရားပွဲကျင်းပတော်မူခဲ့သည်။ ဤတရားပွဲအကြောင်းကို သိမီတော်မူသော လက်ပတောင်းဘုန်းကြီးဦးကေသရ အမိန့်ရှိသည့်အတိုင်း လယ်တီမဗ္ဗကထိကဦးတိုက်ဝမ်းက နောင်သောအခါ အောက်ပါအတိုင်းမှတ်တမ်းတင်ထားခဲ့သည်။

လယ်တီဆရာတော်ကြီးသည် တရားပွဲမစမီ တရားထောက်တစ်ဦးအလိုရှိသဖြင့် မိမိ၏ရှေ့မနီးမဝေး၌ထိုင်နေသော ဒကာကြီးအား 'ဒကာကြီး' ဟု ဦးစွာခေါ်တော်မူလိုက်၏။

ဒကာကြီး – ဘုရား။

ဆရာတော်ကြီး – နာမည်က ဘယ်လိုခေါ်သလဲ။

ဒကာကြီး – ဘိုးရွှေဝပါတဲ့ ဘုရား။

ဆရာတော်ကြီး – ဘယ်အရပ်ကလဲ။

ဒကာကြီး – လက်ပတောင်းကပါဘုရား။

ဆရာတော်ကြီး – အင်း၊ ဒါဖြင့် လက်ပတောင်းက ဘိုးရွှေဝပေါ့။

ဒကာကြီး – တင်ပါဘုရား။

ဆရာတော်ကြီး – လက်ပတောင်းက ဘိုးရွှေဝရေ့။

ဒကာကြီး – ဘုရား။

ဆရာတော်ကြီး – ဒကာကြီးတို့တတွေကို ဆင်းရဲအောင်နှိပ်စက်ပြီးနေတာ ဘယ်သူတွေဆိုတာ သိရဲ့လား။

ဒကာကြီး – တင်ပါ့ သိပါဘုရား။

ဆရာတော်ကြီး – ဒါဖြင့် လျှောက်စမ်းပါဦး။

ဒကာကြီး – သား, မယားတွေကြောင့်ပါဘုရား။

---

*၁ လယ်တီဦးကောဝိဒ၏ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး ဇနပ္ပဒတ္ထိကထာ။ (စာမျက်နှာ ၂၉–၃၂)။

ဆရာတော်ကြီး – ဟေ၊ ဘာကြောင့်ကွဲ့ ဒကာဘိုးရွှေဝရဲ့။

ဒကာကြီး – သားတွေ မယားတွေကြောင့်ပါဘုရား။

[လယ်တီဆရာတော်ကြီးက ဘိုးရွှေဝအား ပြင်လျှောက်စေလို၍ ထောက်ပြီး ထပ်မေးခြင်း ဖြစ်သည်။ ဘိုးရွှေဝက မပြင်ဘဲ ထပ်ပြီးလျှောက်နေသဖြင့် တရားနာခံတရားထောက်၏စကားကို လိုက်ပြီး ဆရာတော်ကြီး ရှေ့ဆက်၍ တရားခွင်ယူ၍ဟောတော်မူပုံမှာ–]

ဆရာတော်ကြီး – ကိုင်း၊ မင်းတို့ဒကာတွေကို ဆင်းရဲအောင်နှိပ်စက်နေတဲ့ သားတွေ မယားတွေဆိုတာမှာ သားဟာ မယားကလာတာ၊ အဓိကရန်သူဟာ မယားဆိုတဲ့ မိန်းမတွေကပဲမဟုတ်လား။

ဒကာကြီး – တင်ပါ့ဘုရား။

ဆရာတော်ကြီး – ကိုင်း၊ ဒါဖြင့် မင်းတို့ယောက်ျားတွေကို ဒုက္ခပေးလှတဲ့မိန်းမတွေကို ခေါင်းဖြူစွယ်ကျိုး အမယ်အိုကစပြီး မွေးခါစ တတွတ်တီမှမထားနဲ့၊ အားလုံးကုန်စုကွယ်၊ ချင်းတွင်းမြစ်ကြီးထဲ ဖောင်ရိုက်, အားလုံးကုန် တင်ကွယ်၊ ဝါခေါင်လ ရေကကြီး အစီးကလဲသန်နဲ့ ဖောင်မျှောရ အောင် ဖောင်ကြိုးဖြည်ကွယ်၊ တကယ်တော့မဟုတ်ဘူး၊ စိတ်ကူးပေါ့။

ဒကာကြီး – တင်ပါ့ဘုရား၊ ဖောင်ကြိုးဖြည်ပြီးပါပြီဘုရား။

ဆရာတော်ကြီး – ကိုင်း၊ မျှောလိုက်ကြစို့လကွယ်၊ ဒကာဘိုးရွှေဝရေ့ မင်းတို့ယောက်ျား တတွေကို ဒုက္ခပေးတဲ့မိန်းမတွေ ချင်းတွင်းမြစ်ကြီးထဲ မျှောသွားရှာ ကြပြီကွယ်။

[ဤသို့မိန့်တော်မူပြီး လယ်တီဆရာတော်ကြီးက သရုပ်ပါပါနှင့် မြစ်အောက်အရပ် တောင် ဘက်ဆီသို့ လှည့်ငဲ့၍ အသက်ပါလောက်အောင် ငေးကြည့်တော်မူပါသည်။ ဤအချိန်၌ တရားပွဲ အတွင်းရှိ ဒါယိကာမများမှာ ခေါင်းငုံ့၍ ခပ်ကုပ်ကုပ်ကလေးတွေနှင့် မျက်နှာပျက်နေကြရှာသည်။]

ဆရာတော်ကြီး – ဘိုးရွှေဝရေ၊ တော်သလင်းလပြည့်ကျော်(၁၀)ရက်နေ့ အရှေ့ဘက်ကမ်း လေ့ကူးရွာ (ယခု–မုံရွာ) ဆုတောင်းပြည့်ဘုရားပွဲက ဆွမ်းလုံးပွဲ ဆွမ်း လောင်းပွဲမှာ တို့အနောက်ဘက်ကမ်းသျှောင်ပင်ကြီးရွာက မုန့်လောင်း သွားချေရအောင် မုန့်ဖက်ထုပ် ထုပ်မယ်၊ မုန့်ဆီကြော်မယ်၊ မင်းတို့ ယောက်ျားတွေထဲက ဘယ်သူ မုန့်လုပ်တတ်သလဲ၊ မောင်ရွှေဝကော လုပ်တတ်ရဲ့လား။

ဒကာကြီး – တပည့်တော် မလုပ်တတ်ပါဘုရား၊ လုပ်ဖူးလက်စလဲ မရှိပါ၊ သူတို့ တတွေက တဲစပ်ကလေးအစ ဖက်ခွက်ကလေးအစ လုပ်နိုင်းမှ လုပ် ပေးတတ်ပါသည်ဘုရား။

ဆရာတော်ကြီး – ဟေ့ ဒကာဘိုးရွှေဝ၊ ဘုရားပွဲရှိလို့ မုန့်ကလေးလောင်းချင်လို့မှ မလောင်းနိုင်၊ မလှူနိုင်၊ မလုပ်နိုင်တဲ့ မင်းတို့ယောက်ျားတွေနဲ့ပေါင်းလို့ဖြင့် မတော်ဘူး။ တကယ့်သာသနာ့ကိစ္စမှာ မိန်းမတွေမပါလျှင် ဘယ်နှယ့်လုပ်မလဲ၊ ခုနက မိန်းမတွေတင်မျှောလိုက်တဲ့ဖောင် ပြန်ဆယ်၊ စိတ်ကူးနဲ့မျှောလိုက်လို့သာပေါ့။ တကယ်ဆို အကျိုးမနည်းလား တကာဘိုးရွှေဝရယ်။

[ဟု မိန့်တော်မူသောအခါ မိန်းမပရိသတ်မှာ သဘောကျပြီး ပွဲကတော် တကာမကြီး တစ်ဦးမှာ ထ,၍ပင် ကပြီး 'ဒါမှ တို့ဆရာတော်ကြီး'ဟု ဝမ်းမြောက်ဝမ်းသာနှင့် ပိုးသင်္ကန်း တစ်စုံ လှူပါသည်။ အခြားဒကာမများလည်း စု၍ သင်္ကန်းတစ်စုံ တရားပွဲမှာပင်လှူကြသည်။]

ဆရာတော်ကြီး – ဒီလို ဘိုးရွှေဝရဲ့၊ တို့တတွေ ယောက်ျား၊ မိန်းမ သတ္တဝါဟူသမျှ ဆင်းရဲအောင်နှိပ်စက်ပြီးနေတဲ့ တရားဟာ အခြားမဟုတ်၊ ခန္ဓာငါးပါး ရုပ်နာမ်တရားမျှသာလျှင် ဖြစ်တယ်–

ဟူ၍ ဒုက္ခသစ္စာထိုက်သော ရုပ်နာမ်တရားတော်ကို ထိုနေ့ညတွင်ဟောကြားတော်မူပါသည်။*[၁]

**စတုသစ္စဒီပနီ**

လက်ပတောင်းတောင် စကြံကျောင်း၌ လယ်တီဆရာတော်ကြီး သီတင်းသုံးဝါကပ်ဆိုနေစဉ် စကြံကျောင်းဒကာဖြစ်သူ မောင်ကျော့နှင့် မောင်စံလင်းတို့က 'ဗုဒ္ဓဘာသာ သာသနာတော်၏ အနှစ်သာရ ပဓာနအချုပ်လည်းဖြစ်၊ အလွန်မှလည်းနက်နဲလှစွာသော သစ္စာအနက် တစ်ဆယ့်ခြောက်ချက်တို့၏အနက်အဓိပ္ပာယ်တို့ကို မှတ်သားကြလိုကြောင်း' လျှောက်ထားတောင်းပန်ကြသောကြောင့် သစ္စာလေးပါး၏အနက်အဓိပ္ပာယ်ကို အကျဉ်းသင်္ခေပနည်းအားဖြင့် ရေးသားတော်မူရာ၊ ထိုနှစ် ဝါခေါင်လဆုတ် ၂–ရက် (အေဒီ–၉၊ ဩဂုတ်လ၊ ၁၉၀၃–ခုနှစ်)တွင် ပြီးစီးအောင်မြင်ခဲ့ပါသည်။ ကျမ်းစာ၏အမည်ကို 'စတုသစ္စဒီပနီ'ဟူ၍ အမည်ပေးအပ်ခဲ့ပါသည်။*[၂]

စတုသစ္စဒီပနီကျမ်းတွင် သစ္စာအနက်(၁၆)ချက်နှင့်စပ်၍ လယ်တီဆရာတော်ကြီးက ယောဂီပုဂ္ဂိုလ်တို့အား 'ဒုက္ခသစ္စာ၏အနက်လေးချက်ကိုသာ ပိုင်နိုင်စွာထင်မြင်အောင်အားထုတ်ရာ၏၊ ပိုင်နိုင်စွာထင်မြင်၍ ဒုက္ခသစ္စာ၌ ပရိညာကိစ္စပြီးခဲ့လျှင် ကြွင်းသောသစ္စာသုံးပါးတို့၏အနက် (၁၂)ချက်တို့သည် အလိုလိုကိစ္စပြီးကုန်၏။ တမင်အားထုတ်ဖွယ်ကိစ္စမရှိကုန်'ဟူ၍ ဝိပဿနာလုပ်ငန်း၏လမ်းစကို ထုတ်ဖော်ပြသရေးသားခဲ့ပါသည်။*[၃] ထို့ပြင် 'ယခုအခါ ဒိဋ္ဌိဒုစရိုက် အမိုက်တောကြီးအတိဖြစ်သော လောကီဘုံသူ,လောကီဘုံသား သံသရာဝဋ်သမားတို့သည် ခန္ဓာငါးပါး

---

*[၁] အောင်သိဒ္ဓိရွှေကြီး၏ ဝါတော်စဉ်ထေရုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ ၂၂–၂၅)။

*[၂] လယ်တီဆရာတော်ကြီး၏ စတုသစ္စဒီပနီ။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၉–ခုနှစ်။ (စာမျက်နှာ–၄၈)။

*[၃] ယင်း။ (စာမျက်နှာ–၄၆)။

တို့တွင် တစ်ခုခုသောခန္ဓာ၌ အနိစ္စလက္ခဏာဖော်နည်းဖွင့်နည်းများကို ဆရာကောင်းထံ နည်းနိဿယ ကျကျနနခံယူလျက် မိမိတို့၏စိတ်နှလုံး၌ အစဉ်ထာဝရ ကျလောင်စူးစိုက်ကာပါရှိနေသော သက္ကာယဒိဋ္ဌိလောဘမီး,သက္ကာယဒိဋ္ဌိလုံမတို့ကို ပယ်ရှားတည့်ရန် ဝိပဿနာအလုပ်များကို အားထုတ်စွဲမြဲကြကုန်ရာသည်’ဟူ၍လည်း ဝိပဿနာအလုပ်၌စွဲမြဲစွာအားထုတ်ကြရန် တိုက်တွန်းရေးသားတော်မူခဲ့ပါသည်။*၁

## ဝိပဿနာနှိုးဆော်သံ

ဤသို့ လယ်တီဆရာတော်ကြီးက ရုပ်နာမ်တရားခန္ဓာငါးပါးတို့ကို လက္ခဏာတင်၍ရှုမှတ်ပွားများရန်တိုက်တွန်းနေသည့်ထိုခေတ်အခါက ဝိပဿနာဟူသောအသံသည် မကြားရလောက်အောင်ဆိတ်သုဉ်းလျက် ဒါနကထာ,သီလကထာစသော တရားစကားတို့သာလျှင် ကျယ်လွင့်ဟိန်းဆူနေချိန်ဖြစ်သည်။ ‘ဝိပဿနာဆိုတာ ချိုနဲ့လား’ဟု မေးရမတတ်ဖြစ်နေချိန်လည်းဖြစ်သည်။ ဝိပဿနာအကြောင်းပြောကြသော်လည်း မည်သို့မည်ပုံအားထုတ်ရမည်ကိုကား နည်းလမ်းတကျပြသပေးမည့် ကမ္မဋ္ဌာနာစရိယမရှိသောအခါလည်းဖြစ်သည်။ သာသနာရေစီးကြောင်း၌ သမထဝိပဿနာလုပ်ငန်းတို့အကြောင်း တထုံ့တထုံ့ပေါ်လာတတ်သော်လည်း အဆွဲဓာတ်နည်းသောလုပ်ငန်းမျိုးဖြစ်နေ၍ လူမကြိုက်၍လောမသိ၊ ထိုသမထဝိပဿနာသည် ပြန်လည်၍တိမ်မြုပ်သွားခဲ့ရသည်။

သို့ပါသော် ရှေးမှတ်တမ်းများအရ ရှေးရှေးသောဆရာတော်ဘုရားကြီးတို့သည် သမထဝိပဿနာအလုပ်ကို စွဲမြဲကျင့်သုံးခဲ့ကြသော်လည်း မိမိအားထုတ်အပ်သောတရားကို အသိမပေးလို၊ မိမိရောက်အပ်သောဌာနကို ဖုံးကွယ်လိုကြသော အဓိဂမအပ္ပိစ္ဆပုဂ္ဂိုလ်များဖြစ်တော်မူကြပါ၍ ဤပုဂ္ဂိုလ်ကြီးများလွန်တော်မူသောအခါဝယ် အကျင့်စရဏနည်းနာတို့ပါ တပါတည်းကွယ်ပျောက်ကုန်သကဲ့သို့ဖြစ်ခဲ့ရသည်။ တစ်ကြိမ်တစ်ခါ တထုံ့တထုံ့ပေါ်သည်ဆိုရာတွင် စတုဂိရိခေါ် တောင်လေးလုံးဆရာတော်ဘုရားကြီးတို့လက်ထက်အခါက ရှုဘွယ်ကျမ်းများအရ ဝိပဿနာတရား ထွန်းကားသင့်သလောက် ထွန်းကားခဲ့ကြောင်းတွေ့ရသည်။ ထို့ပြင် သီးလုံးဆရာတော်ကြီးတို့လက်ထက်လည်း ဂမ္ဘီရဂ္ဂုဒေသနာတို့ဖြင့် ဝိပဿနာအသံလွင့်ပျံ့ခဲ့ရသည်။ ယခု လယ်တီဆရာတော်ကြီးတို့ခေတ်တွင်လည်း မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီး၏ ပရမတ္ထသရူပဘေဒနီကျမ်း ဒုတိယတွဲတွင် သင်္ဂြိုဟ်ကျမ်းလာ ကမ္မဋ္ဌာန်းပိုင်းကို သီလဝိသုဒ္ဓိထူထောင်ပုံမှသည် သမထဝိပဿနာဘာဝနာအမျိုးမျိုး ရှုပွားပုံရှုပွားနည်းအထိ ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာတစ်ကျမ်းလုံးကို ဥပနာ၍ ရေးသားထားတော်မူသည်ကိုထောက်ရှုပါက မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏လျှောက်လှမ်းနေသော ပဋိပတ်လမ်းစကို မှန်းမျှော်ကြည့်နိုင်ပါသည်။

လယ်တီဆရာတော်ကြီးက သမထဝိပဿနာဘာဝနာ ပွားများအားထုတ်ပုံတို့ကို လေ့ကျက်လိုက်စားကြရန် နှိုးဆော်တိုက်တွန်းတော်မူပါသဖြင့် ဆရာတော်ကြီးကြွလေရာရာ အရပ်ဒေသ

*၁ လယ်တီဆရာတော်ကြီး၏ စတုသစ္စဒီပနီ။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၉-ခုနှစ်။ (စာမျက်နှာ-၄၇)။

တို့၌ မင်္ဂလာဖိုလ်သံများဟိန်းဆူ၍လာလေသည်။ ဤအကြောင်းနှင့်စပ်၍ နောင်သောအခါ အရှင်အာဒိစ္စဝံသက–

'ကျွန်ုပ်တို့ စာသင်သားငယ်ခေတ်တွင် မင်္ဂလာဖိုလ်နိဗ္ဗာန်တရားတော်များ ကွယ်ပျောက်တိမ်ကောလုမတတ်ရှိခဲ့လေရာ လယ်တီဆရာတော်ပေါ်ပေါက်ထွန်းကား၍ ဒီပနီကျမ်းများစွာကို ရေးသားလျက် တရားလှည့်လည်ဟောပြောမှသာ ၎င်းမင်္ဂလာဖိုလ်နိဗ္ဗာန်တရားများ ပေါ်ပေါက်ခဲ့လေသည်'–ဟူ၍ပင် ရေးသားခဲ့ပါသည်။*၁

**ရွှေချိန်ခွင် အဆိုကိုဖြေရှင်းခြင်း*၂**

လယ်တီဆရာတော်ကြီးသည် သက်တော်ရွယ်တော်ကရင့်လာ၊ ကျန်းမာရေးကလည်း တစ်နှစ်ထက်တစ်နှစ်ချိလာစဉ် မလျော့သောဖွဲလုံ့လဖြင့်တောရဆောက်တည်တော်မူခဲ့ရာတွင် နှစ်စဉ်လိုလို မိုးလကုန်လုဆောင်းဦးပေါက်သို့ရောက်လျှင် အဖျားရောဂါဝင်လေ့ရှိသည်။ ယခု ၁၂၆၅–ခုနှစ် လက်ပတောင်းတောင် တောင်ပေါ်ဝါဆိုစကြံကျောင်း၌ ဝါကပ်စဉ်အခါမှာလည်း တော်သလင်းလ၊ သီတင်းကျွတ်လသို့ရောက်သော် အဖျားရောဂါကပ်ရောက်ခဲ့သည်။ ဤလသို့ရောက်လျှင် ဆရာတော်ကြီးအဖျားရောဂါကပ်ရောက်ကြောင်းကို တပည့်များကသတိပြုမိကြပြီဖြစ်၍ လွန်စွာဂရုစိုက်ကြသည်။ သို့ဖြစ်၍ ယခုနှစ်တွင် အထူးဂရုပြုနေကြသောကြောင့် ဆရာတော်ကြီးမှာ ဝေဒနာမတိုးပွားဘဲ နေမကောင်းထိုင်မသာ ကိုယ်လက်မအီမသာမျှသာဖြစ်တော်မူခဲ့သည်။ ထို့ပြင် ဆရာတော်ကြီး၏ခြေတော်ရင်းတွင် ဥပုသ်စောင့်နေသော ရန်ကုန်မြို့မှ ဓာတ်ဆရာကြီးဆရာမြို့ကလည်း ဆရာတော်ကြီးနှင့်သင့်မြတ်သော ဘောဇဉ်အာဟာရဆေးဝါးတို့ကို မပြတ်တိုက်ကျွေးပြုစုနေသောကြောင့်လည်းဖြစ်သည်။

ဤအချိန်တွင် မန္တလေးမြို့က ဗုဒ္ဓဘာသာသာသနာပြုအသင်းဥက္ကဋ္ဌ ဒကာဦးကျော်ရန်ထံမှ ယုဒသန်ခေါ် ဒေါက်တာဂျပ်ဆင် မြန်မာဘာသာဖြင့်ရေး၍ နှစ်များစွာအတွင်းအကြိမ်ကြိမ်ဖြန့်ဝေခဲ့ဖူးသော*၃ ရွှေချိန်ခွင်စာအုပ်ကိုတင်ပို့၍ ထိုစာအုပ်များနှင့်စပ်၍ ရှင်းလင်းရေးသားပေးတော်မူပါရန် လျှောက်လွှာတစ်စောင်လည်း ဆရာတော်ကြီး၏လက်တော်သို့ရောက်ရှိခဲ့လေသည်။ ထိုရွှေချိန်ခွင်စာနှင့်အတူ ဝန်ထောက်မင်းဦးစောလှဖြူရေးသော မြန်မာတမန်စာခေါ် စာတမ်းတစ်စောင်လည်း ပါရှိခဲ့သည်။

---

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–လ)။

*၂ လယ်တီဆရာတော်ကြီး၏ သာသနဝိသောဓနီကျမ်း၊ ဒုတိယတွဲ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ ၈၁–၁၅၂)။

*၃ ဤစာအုပ်ကိုအကြိမ်ကြိမ်ရိုက်နှိပ်သည်ဆိုရာ၌ အေဒီ ၁၈၇၃–ခုနှစ်က (၁၃)ကြိမ်မြောက်ရိုက်နှိပ်ခဲ့သောစာအုပ်မူနှင့်၊ အေဒီ ၁၈၇၅–ခုနှစ်တွင် (၁၄)ကြိမ်၊ အေဒီ ၁၈၇၈–ခုနှစ်တွင် (၁၅)ကြိမ်၊ အေဒီ ၁၈၇၉–ခုနှစ်တွင် (၁၆)ကြိမ်၊ အေဒီ ၁၈၈၁–ခုနှစ်တွင် (၁၇)ကြိမ်–စသည်ဖြင့် ပုံနှိပ်မှုများကိုတွေ့ရသောကြောင့်ဖြစ်သည်။ တစ်ကြိမ်ရိုက်နှိပ်လျှင် အုပ်ရေ (၁၀၀၀၀)စီ၊ အေဒီ ၁၈၈၁–ခုနှစ်တွင် အုပ်ရေ–၅၀၀၀ ရိုက်နှိပ်ကြောင်းတွေ့ရသည်။ မောင်မြင့်ဆွေ၏ မြန်မာနိုင်ငံတွင် ပုံနှိပ်ထုတ်ဝေခဲ့သည့် မြန်မာစာအုပ် များစာစုစာရင်း(၁၈၁၆–၁၈၈၅)။ စာကြည့်တိုက်ပညာဒီပလိုမာအတွက် ရန်ကုန်တက္ကသိုလ်စာကြည့်တိုက်ပညာဌာနသို့ ၁၉၈၃–ခုနှစ်တွင်တင်သွင်းသောကျမ်းစာ။ လက်နှိပ်စက်မူ။ (စာမျက်နှာ–၁၆၄)။

ရွှေချိန်ခွင်ဟူသည် မူလအင်္ဂလိပ်အမည်မှာ Golden Blance ဖြစ်သည်။ ဗုဒ္ဓဘာသာနှင့် ခရစ်ယာန်ဘာသာ ဤဘာသာနှစ်ရပ်တို့ကိုချိန်ထိုးနှိုင်းယှဉ်လေ့လာတင်ပြထားသောစာအုပ်ငယ် ဖြစ်သည်။ လယ်တီဆရာတော်ကြီးက ဤစာအုပ်ပါအချက်အလက်တို့ကိုရှင်းလင်းရာ၌ မြန်မာ တမန်စာအုပ်စီစဉ်သူ 'ဝန်ထောက်မင်းဦးစောလှဖြူ' ကိုသာ အထူးရည်ညွှန်းပြီးရေးသားဖော်ပြ ထားပါသည်။

လယ်တီဆရာတော်ကြီးသည် ဦးကျော်ရန်ထံမှပေးပို့သော ရွှေချိန်ခွင်နှင့် မြန်မာတမန်စာ တို့၏ရှင်းလင်းချက်ကို လက်ပတောင်းတောင် ဝါဆိုစကြံကျောင်း၌ ကိုယ်လက်မအီမသာရှိစဉ် ရောဂါကိုမငဲ့ကွက်ဘဲ ရေးသားတော်မူရာ၊ ထိုနှစ် သက္ကရာဇ် ၁၂၆၅–ခုနှစ်၊ သီတင်းကျွတ်လဆန်း ၈–ရက်နေ့ (အေဒီ–၂၈၊ စက်တင်ဘာလ၊ ၁၉၀၃–ခုနှစ်)တွင် ရေးသားပြီးစီးပါသည်။*၁

## သမ္မာဒိဋ္ဌိဒီပနီ

လယ်တီဆရာတော်ကြီးသည် ရွှေချိန်ခွင်၊ မြန်မာ့တမန်စသော စာတမ်းများကို ဖတ်ရှု ပြီးသည့်နောက် မိမိတို့ဗုဒ္ဓဘာသာဝင်သူတော်စင်တို့၌ တစ်ပါးသောဘာသာ မိစ္ဆာဒိဋ္ဌိအယူဝါဒ တို့၏ရောနှောယှက်ထွေးခြင်းမှကင်းပ၍ သမ္မာဒိဋ္ဌိခေါ် ဗုဒ္ဓဘာသာအယူကိုသာ စင်စင်ကြယ် ကြယ် ခိုင်ခိုင်မြဲမြဲတည်တံ့စေလိုသောဆန္ဒတော်မြတ်သည် ဆရာတော်ကြီး၏စိတ်နှလုံး၌ ထင်ရှား ဖြစ်ပေါ်လာပါသည်။

ထိုထက်သန်သောဆန္ဒကြောင့် လက်ပတောင်းတောင်၌ ဝါကပ်သီတင်း နေတော်မူစဉ်ကာလ အတွင်းမှာပင် သုတ္တန္တပိဋက၊ အင်္ဂုတ္တရနိကာယ်၊ တိကနိပါတ်ပါဠိတော်လာ တိတ္ထာယတနသုတ် (အံ၊၁။၁၇၄။)ကိုအရင်းတည်၍ သမ္မာဒိဋ္ဌိဒီပနီအမည်ရှိသောကျမ်းငယ်ကလေးကို ပါဠိဘာသာဖြင့် ရေးသားတော်မူခဲ့ပါသည်။

ဤသို့ လယ်တီဆရာတော်ကြီး ပါဠိဘာသာဖြင့်ရေးသားတော်မူသော သမ္မာဒိဋ္ဌိဒီပနီကျမ်းကို ဆရာတော်ကြီးက နောင်အခါ တပည့်ဖြစ်သူ လယ်တီပဏ္ဍိတကိုယ်တော်အား 'ဤကျမ်းမှာ ပါဠိဘာသာဖြင့်ရေးသားထား၍ ပါဠိဘာသာအလေ့အကျက်မရှိသူများအဖို့ ကြည့်ရှုရန်ခဲယဉ်း ပေလိမ့်မည်၊ ထိုသူတို့ လွယ်လင့်တကူကြည့်ရှုနိုင်ရန် မြန်မာဘာသာသက်သက်ဖြင့် ရေးသား ရမည်' ဟု အမိန့်ရှိသောကြောင့် လယ်တီပဏ္ဍိတကိုယ်တော်သည် သမ္မာဒိဋ္ဌိဒီပနီကျမ်းကို မြန်မာ ဘာသာဖြင့် ပြန်ဆိုရေးသားခဲ့ရပါသည်။*၂

## ကမ္မဋ္ဌာနဒီပနီ

လက်ပတောင်းတောင် စကြံကျောင်း၌ ဝါတွင်းသုံးလပတ်လုံး ဥပုသ်သီတင်းစောင့်သုံးကာ သမထဝိပဿနာတရားအားထုတ်ပြီး လယ်တီဆရာတော်ကြီးအားပြုစုလုပ်ကျွေးနေသော ရန်ကုန်

---

*၁ လယ်တီဆရာတော်ကြီး၏ သာသနဝိသောဓနီ၊ ဒုတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၁၅၂)။

*၂ လယ်တီပဏ္ဍိတ၏ သမ္မာဒိဋ္ဌိဒီပနီကျမ်း။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၉၂–ခုနှစ်။ (စာမျက်နှာ–၁၊၂)။

မြို့မှ စာတတ်ဆရာကြီးဦးမြို့က ဝါကျွတ်လျှင် မိမိဌာန ရန်ကုန်မြို့သို့ပြန်ရမည်ဖြစ်၍ ရန်ကုန်မြို့သို့ရောက်လျှင် ဤတစ်ဝါတွင်းလုံး ဆရာတော်ကြီးထံတော်မှ မိမိနာခံမှတ်သားရသောတရားဓမ္မများကို မိမိကဲ့သို့ ပညာရှိသူတော်ကောင်းအများတို့လည်း ကြားနာသိမှတ်ကြစေရန် စာဖြင့်လည်းရေးသားချီးမြှင့်ပေးတော်မူပါဟု လျှောက်ထားတောင်းပန်ခဲ့လေသည်။ ထိုအခါ ဆရာတော်ကြီးက ဒုလ္လဘတရားငါးပါး၊ ခန္ဓာငါးပါး၏ဥပမာအကျယ်၊ အတွင်းအာယတနငါးပါး၊ အပအာယတနငါးပါးတို့၏ဥပမာအကျယ် စသည်တရားများကိုစုပေါင်းကာ ရေးသားတော်မူရာ ထိုနှစ် ၁၂၆၅–ခုနှစ်၊ သီတင်းကျွတ်လဆုတ် ၅–ရက် (အေဒီ–၁၀၊ အောက်တိုဘာလ၊ ၁၉၀၃–ခုနှစ်)တွင် ပြီးစီးတော်မူပါသည်။ ထိုကျမ်း၏အမည်ကို 'ကမ္မဋ္ဌာနဒီပနီ'ဟု အမည်ပေးတော်မူပါသည်။*[၁]

အောက်ပြည်အောက်ရွာသို့

စာတတ်ဆရာကြီးဆရာမြို့သည် ဆရာတော်ကြီးထံမှ ကမ္မဋ္ဌာနဒီပနီကျမ်းလက်ရေးမူကိုရရှိပြီး၊ သီတင်းဝါလကျွတ်၍ မိမိဌာန ရန်ကုန်ပြန်ရန်ပြင်သောအခါ ဆရာတော်ကြီးအား ခွင့်တောင်းဦးခိုက်ရင်း အထက်နိုင်ငံ၌ ရာသီဥတုစသည်မှာ နွေအခါပူပြင်း၊ ဆောင်းအခါ ချမ်းအေးလှသောကြောင့် ဆရာတော်ကြီး၏ကျန်းမာရေးနှင့်မသင့်, ဥတုသပ္ပါယမဖြစ်ကြောင်း၊ အောက်ပြည်အောက်ရွာ အောက်ဌာနတို့မှာ နွေအခါလည်းမပူမပြင်း သင့်ရုံ, ဆောင်းအခါလည်း ဆီးနှင်းစသည်မသည်းထန် သင့်ရုံ, ပထဝီအနေအထားဖြင့်လည်း စိမ့်စမ်းပေါ်များ အရိပ်အာဝါသကောင်းလှသဖြင့် အောက်ပြည်အောက်ရွာရှိတောတောင်ဒေသများ၌ တောရဆောက်တည်လျှင်သင့်ပါကြောင်း လျှောက်ထားလေသည်။

ထိုသောအခါ ဆရာတော်ကြီးက ဆရာဦးမြို့လျှောက်ထားသည့်စကားတို့မှာ သင့်သည်ဖြစ်၍ အောက်ပြည်အောက်ရွာ၌သီတင်းသုံးနေဖူးသူ တပည့်အရှင်ကိတ္တိကိုခေါ်ယူကာ–

'တပည့် ကိတ္တိ၊ ငါတို့အထက်အညာက နွေအခါဆိုလျှင် အလွန်ပူပြင်းလှသည်၊ တောတောင်ချိုင့်ဝှမ်း စိမ့်စမ်းမြောင်းရေများလည်း ခမ်းခြောက်နေပေသည်၊ ငါ မဟာဗောဓိမှပြန်ကြွလာစဉ်က နယ်ခြား*[၂] ဖြစ်တဲ့ပျဉ်းမနားတစ်ဝိုက်တွင် အရိပ်သခ်မ်းကောင်းကောင်းနှင့် တောကျောင်းဆောက်ရန် အကွက်ကျသည်ကို မီးရထားပေါ်မှမြင်ခဲ့သည်။ သည်လိုနေရာအရပ်ကို တောကျောင်းနေရလျှင် တရားအားထုတ်ရန်ကောင်းသည်၊ ငါ့တပည့် မောင်ကိတ္တိက သွားနှင့်၍ ထိုနယ်ခြားပျဉ်းမနားအနီး အရိပ်သခ်မ်းကောင်းသောနေရာကို ရှာဖွေချေရမည်'

ဟု မိန့်တော်မူလေရာ၊ အရှင်ကိတ္တိကိုယ်တော်သည် ဆရာတော်ကြီး၏မိန့်ခွန်းတော်အတိုင်း ဆောင်ရွက်ရန် ထိုနေ့မှာပင် သပိတ်သက်န်းယူ၍ လက်ပတောင်းတောင်အရပ်မှခွာကာ မုံရွာမြို့၊ မုံရွာမြို့မှတစ်ဖန် ပျဉ်းမနားသို့ထွက်ခွာတော်မူခဲ့သည်။

---

*[၁] လယ်တီဆရာတော်ကြီး၏ ကမ္မဋ္ဌာနဒီပနီ။ ၁၉၅၀–ပြည့်နှစ်။ (စာမျက်နှာ–၁၅၅)။

*[၂] နင်းကြမ်း–ဟုလည်းခေါ်သည်။

## ကင်းဝန်မင်းကြီး၏ သား ဖူးမြော်လာခြင်း

လက်ပတောင်းတောင် စကြံကျောင်း၌ လယ်တီဆရာတော်ကြီး သီတင်းသုံးနေတော်မူစဉ် မြန်မာ့သမိုင်း၌အလွန်ထင်ရှားခဲ့သော ကင်းဝန်မင်းကြီး၏သားဖြစ်သူ ပုသိမ်ကြီးမြို့အုပ် ဦးခင်မောင်ကြီး*[၁] မုံရွာမြို့သို့အလည်အပတ်ရောက်ရှိလာပါသည်။ ဦးခင်မောင်ကြီးကို ဆရာတော်ကြီး၏ စတုပစ္စယဒါယကာဦးစံလင်း၊ ဦးကျော့တို့က မုံရွာမြို့အနောက်ဘက်ကမ်းနှင့် လက်ပတောင်းတောင် စကြံကျောင်းသို့ခေါ်ဆောင်ခဲ့ကြသည်။ ဆရာတော်ကြီး၏ရှေ့သို့ရောက်လျှင် ဒကာဦးခင်မောင်ကြီးကို ကင်းဝန်မင်းကြီး၏သားဖြစ်မှန်းသိတော်မူသောအခါ ဆရာတော်ကြီးက– 'မင်းခမည်းတော် ခန့်ကျန်း သာ၍မာတော်မူပါရဲ့လား'ဟုအမေးတော်ရှိလေသည်။ ဦးခင်မောင်ကြီးသည် ဆရာတော်ကြီး၏ ထံပါး၌ ၄,၅–ရက်ခန့်နေ၍ ဝိပဿနာဘာဝနာတရားများကိုနာယူခဲ့သည်။ နောက်ဆုံးပြန်မည့်နေ့ ဆရာတော်ကြီးအားရှိခိုးကန်တော့သောအခါ လယ်တီဆရာတော်ကြီးက– 'အိမ်း–မင်းခမည်းတော် အတွက် တောလက်ဆောင်တစ်ခုပါးလိုက်မည်၊ မင်းခမည်းတော်အား ဤလက်ဆောင်ကို ဆက်,သလိုက်ပါလေ'ဟု မှာကြားပြီး ဤရက်အတွင်း မိမိရေးထားသော သံဝေဂလေးချိုးကြီးကို မြို့အုပ်ဦးခင်မောင်ကြီး၏လက်သို့ ပေးအပ်တော်မူခဲ့လေသည်။*[၂]

ကင်းဝန်မင်းကြီးသို့ ရေးသားပေးတော်မူသော လေးချိုးကြီးမှာ 'မိုက်မလင်းနိုင်လို့' အစ ချီသော အောက်ဖော်ပြပါလေးချိုးကြီးပင်ဖြစ်သည်။

မိုက်မလင်းနိုင်လို့၊ မြိုက်ခင်းညာဆီမှာ၊ ခါတော်မီ သီမဝေ့နိုင်ဘု၊ ဒီကွေ့တွင် နေကုန်မြောပြန်ရ၊ အတော ဘယ်မသတ်နိုင်တဲ့ ရဟတ်ဘွေ။

ငါးရပ်ကယ်စုံညီ၊ ဒုလ္လဘီငယ်၊ ကြုံမှီခုခေတ်၊ မြန်ခင်းဖမ္ဗူ၊ မှန်ကင်းငယ်ထူ၊ လူ့ထက်လူဖြစ်ပါလျက်၊ အနုစ်ကယ်မနွယ်၊ အကာတောမှာ၊ ဗျာမောကျယ်လို့၊ အကယ်ယောင်ယောင်၊ အမြင်မဖြောင့်၊ အညင်ထောင့်၊ မှောင့်ထက်မှောင်၊ သန်းခေါင် လ,မိုက်၊ မိုးတိမ်မြွေးတဲ့၊ မီးသွေးတိုက်မှာ၊ အလိုက်ကယ်ဘာသာ၊ အမြင်မငွေ့၊ အထင်ရွှေ့နှင့်သာ၊ အလေ့ရာလျက်၊ အခါနာရီ၊ ရွှေ့ရွှေ့ငယ်ချီ၊ တိထီ ဆန်းဆုတ်၊ ရတုအဆင်၊ လုလုငယ်နှင့်၊ အထွင်ချုပ်လို့ သုတ်သုတ်ကယ် ရက်ရေ၊ ဇရာလက်မှာ၊ အသက်သာကြွေတော့တယ်၊ အသေသတ် လက်မရွံ့ကို၊ အသက်ခွန် ပဏ္ဏာသွင်း

---

*[၁] ကင်းဝန်မင်းကြီးသည် အသက် ၂၇–နှစ်အရွယ်တွင် မင်းတုန်းမင်းအစီအစဉ်ဖြင့် အသက် ၅၅–နှစ်အရွယ် ဆင်ကြန်မယ်နှင့်လက်ဆက်ခဲ့ရသည်။ သားသမီးမထွန်းကားခဲ့ပေ။ မွေးစားသားများသာရှိရာ ပထမသားမှာ ကချင်လူမျိုးဖြစ်ပြီး နောင်ရဟန်းဝတ်သဖြင့် ဦးဓမ္မ–ဟူသောဘွဲ့အမည်ဖြင့် ကင်းဝန်ကြီး၏ သာကဝန်ကျောင်း၌နေခဲ့သည်။ ဒုတိယသားမှာ ဦးခင်မောင်ကြီး ပုသိမ်ကြီးမြို့အုပ်ဖြစ်သည်။ တတိယသားမှာ ဦးကြာဥ အမရပူရမြို့အုပ်ဖြစ်သော်လည်း စာပေမကျနစ၍ မင်းကြီးကွယ်လွန်လျှင် အလုပ်မှပြုတ်ခဲ့သည်။ ဦးချမ်းမြ၏ ကင်းဝန်မင်းနှင့် သာကဝန်ကျောင်းတော်။ တက္ကသိုလ် ပညာပဒေသာစာစောင်၊ အတွဲ–၅၊ အပိုင်း–၄။ (စာမျက်နှာ–၁၄၆)။

*[၂] လယ်တီဦးလုပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၄၅)။

ရန်ဘို့၊ ထမင်း အစာစုံနှင့်၊ ခန္ဓာရုံမြဲပြုပြီးဆီက၊ အငြီးဖြေကာ စောင့်ရှာကြ၊ စိုးနှောင့်သခေ်။

သို့ပါမူလဲ၊ ပူနွယ် ဆွေးနွယ်၊ အရေးကျယ်တွေကို၊ အေးဘွယ်ထင်မှတ်၊ အစမမြင် ဘဝလျှဉ်၊ အစဉ်ငတ်ဟာမို့၊ မသက်ကယ်အာသာ၊ အာရုံဓမ္မ၊ ပြာပုံမွမှာ၊ ရသာရှာလျက်၊ ငါတလူလူ၊ ပမာမူ၊ ရွာသူတို့ဝက်၊ အစာများထူ၊ အသားလူ၊ ဆူလေလေခက်ပါလျက် ရမက်ကယ်မာန်ဝင်၊ သူ့အသင်းမှာ၊ သူမင်းဘဲထင်လိုက်လို့ ရွှင်နိုင်မျှ ဝက်သဏ္ဍာန်လို၊ အချက်မှန်ပေါ်မလင်းစေဘို့၊ ဖော်သင်းရွှေ မိတ်သင် ယှက်သည့်ပြင်၊ ခင်မက်ဘွယ်အရုံစုံပ၊ မာန်တဂုဏ်၊ ဟန်ပုံနှင့်ဖုံးရှာကြ၊ ရှုံးပလေ၊ ထုံမြေပြာစုမိတ်တွေမို့။

ငါတလုံးနယ်၊ အနှုန်းငယ်ကျယ်၊ သုံးသွယ်မြဲသိုက်၊ ဘုံတလိုက်မှာ၊ တုန်ရိုက် ကယ်ဆူညံ၊ မြူမချန်၊ ပူလှုံတောက်ညီး၊ အမြဲစတေ မစဲရွှေ၊ အသေမီးတဲ့၊ အပြီးငယ်ကုန်စင်၊ ဘုံတခွင်ကို၊ အတွင်လောင်မြိုက်၊ အပြောင်တိုက်လို့ အမိုက်ကယ် ဝင့်နွယ်၊ အဖြစ်မစဲ၊ သစ်သစ်လဲ၊ သဲသဲကြွယ်လည်း၊ အကယ်မလောက်၊ သူကသာ မောက်တော့၊ နောက်နောက်ကမ္ဘာ၊ ဘန်ဘန်လာလဲ၊ အစာသူ့တွင်၊ တစ်ခုသာ ဝင်ကြရ၊ သခ်တရုပ်နာမ်ငယ်၊ အဟုတ်ဉာဏ် မတင်စီးနိုင်ရ၊ သည့်မီးတာ ဘယ်တကိန်းမှာမှ၊ ငြိမ်းပါမယ်လို့။ ။*၁

အလုံ ကြီးခေါင်ကြီးတောရသို့

သက္ကရာဇ် ၁၂၆၅–ခုနှစ်၊ တပေါင်းလ (အေဒီ ၁၉၀၄–ခုနှစ်၊ ဖေဖော်ဝါရီလ)တွင် လယ်တီဆရာတော်ကြီးသည် လက်ပတောင်းတောင်မှထွက်ခွာ၍ မုံရွာမြို့သို့ကြွတော်မူရန် ချင်းတွင်းမြစ်ကို ကူးအံ့သောအခါ ရွှေကျောင်းဘုန်းကြီးအရှင်ဉာဏဝံသရောက်ရှိလာ၍ ‘ဤအခါကာလသည် ပူပြင်းလှပါသည်ဘုရား၊ တပည့်တော်၏ကျောင်းနှင့် မနီးမဝေး၌တည်ရှိသော ယာကြီးကုန်းခေါ် ကြီးခေါင်ကြီးတောရတွင် ခေတ္တနားတော်မူပါဦးဘုရား’ ဟု လျှောက်ထားပင့်ဆောင်သည့်အတွက် လယ်တီဆရာတော်ကြီးသည် ချင်းတွင်းမြစ်အရှေ့ဘက်ကမ်း အလုံမြို့ဘက်သို့ ကူးတော်မူကာ အလုံမြို့၊ ကြီးခေါင်ကြီးတောရသို့ တရားဘာဝနာအားထုတ်နေတော်မူခဲ့ပါသည်။*၂

ဤ ကြီးခေါင်ကြီးတောရကား ကြီးခေါင်ကြီးရှင်မနတ်ကွန်းရှိရာအရပ်ဖြစ်သည်။ ကြီးခေါင်ကြီးရှင်မမှာ အလုံဘိုးတော်ကြီး၏သမီးကြီး နာဂသိင်္ဂီဖြစ်ပြီး၊ ထိုရှင်မကွယ်လွန်ရာအရပ်ဖြစ်သည်။ အလုံဘိုးတော်ကြီးပွဲ၌ တပေါင်းလပြည့်ကျော် ၂–ရက်နေ့တွင် ရိုးရာပုဂ္ဂိုလ်တို့က ကောက်ညှင်းပေါင်း အဖြူ နှီဆီ ၅–လုံးချက်ခနဲ့ကို လင်ပန်း၌ထည့်၊ ငါးကြော်အကောင်လိုက် နှစ်ကောင်,သုံးကောင်၊ သောက်တော်ရေအိုး၊ ပန်းအိုး၊ လက်ဖက်ပွဲစသည်ကို အဆောင်ကိုင် ၁၅–ဦးခန့်တို့ဖြင့် ဤ

---

*၁ လယ်တီဆရာတော်ကြီး၏ ဂမ္ဘီရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၁၃၃)။

*၂ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထ ဝင်ကျော်များ။ (စာမျက်နှာ–၁၅၀)။

ကြီးခေါင်ကြီးအရပ်သို့ အိုးတော်တည်သွားရောက်ကြ၍ ကြီးခေါင်ကြီးရှင်မနတ်ကွန်းတွင် ပန်းလဲ၊ ရေလဲ၊ ကန်တော့ပွဲဆက်၊ စားတော်တိုက်ခြင်းများပြုကြရသည်။*၁

ထို ကြီးခေါင်ကြီးရှင်မစံရာ ယာကြီးကုန်းတောရတွင် လယ်တီဆရာတော်ကြီး ခေတ္တသီတင်းသုံးနေတော်မူပြီးနောက် 'ဤတောရသည် နှစ်သက်ဖွယ်ကောင်း၏၊ နောင်အခါ ဤတောရတွင်လည်း လာရောက်၍နေဦးမည်' ဟုမိန့်ဆိုတော်မူပြီး၊ မုံရွာမြို့၊ မဟာလယ်တီတိုက်သို့ ပြန်ကြွတော်မူခဲ့ပါသည်။

*၁ ခင်မောင်သန်း(စိတ်ပညာ)၏ ရိုးရာနတ်ယုံကြည်မှုနှင့်ဓလေ့ထုံးစံများ။ ပင်ဝါးရုံစာပေ၊ ရန်ကုန်မြို့။ ၂၀၀၁-ခုနှစ်။ (စာမျက်နှာ-၉၀)။ ဤ နာဂသိဂီ (ခေါ်) ကြီးခေါင်ရှင်မ (ခေါ်) တောင်ကန်ရှင်မစံနန်းရှိရာ ယာကြီးကုန်းခေါ် ကြီးခေါင်ကြီးတောရသည် ချင်းတွင်းမြစ်အရှေ့ဘက်ကမ်း ချင်းတွင်းတံတားထိပ် မုံရွာမြို့ အိုးဘိုတောင်ရပ်ကွက်ရှိ တောင်ကန်ရွာပျက်တည်ရာတွင်ဖြစ်သည်။ ယခု ထိုနတ်နန်းအနီး ရှေးဘုရားဟောင်းတစ်ဆူကိုပြုပြင်၍ ဘုန်းစက်ရှိန်ဘုရားဟု ဘွဲ့တော်သမုတ်ထားသည်။

## လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်

[သတ္တမပိုင်း]

## မဟာဓမ္မကထိက မဟာဂန္ထ ကာရက
## ပြည်တွင်းပြည်ပသာသနာပြုဆရာတော်ကြီးဘဝ
## (သက္ကရာဇ် ၁၂၆၆–သက္ကရာဇ် ၁၂၇၈)*၁

**နွှံတွင်းက ကြာ**

လယ်တီဆရာတော်ကြီး၏ပကတိစိတ်ထားတော်မှာ တောတောင်ရိပ်ကို ခိုလှုံ၊ သစ်တစ်ပင်ဝါးတစ်ပင်အောက်၌ အပေါင်းအဖော်ကိုမမင်ဘဲ ကြံ့ချိုပမာ တစ်ပါးတည်းနေ၍ တရားဘာဝနာအလုပ်ကို အဟုတ်တကယ် အားထုတ်နေတော်မူလိုခြင်းပင်ဖြစ်သည်။ လောက၏သဘောကား ဆန်းကြယ်လှပေရာ ဆရာတော်ကြီးအဖို့ ရွယ်တိုင်းမဖြစ် မှန်းတိုင်းမပြောက်နိုင်ဘဲ တောတောင်အရပ်၌နေလိုပါလျက် မြို့ပြတို့၌သီတင်းသုံးနေတော်မူခဲ့ရ၏။ သစ်တစ်ပင်ဝါးတစ်ပင်အောက်၌နေလိုပါလျက် အသားကျောင်း, တိုက်ကျောင်းစသည်၌ ကြံ့နေရ၏။ လူသူကင်းဆိတ်ရာသုညာဂါရအရပ်၌နေလိုပါလျက် တပည့်သံဃာများနှင့် ဆွမ်းဒကာကျောင်းဒကာစသည်တို့ဝန်းရံကာနေခဲ့ရပြန်ပါသည်။ တရားဘာဝနာအလုပ်၌နှစ်မြုပ်နေလိုပါလျက် စာပေပို့ချခြင်း, စာပေပြုစုခြင်း, တရားဟောပြောခြင်းစသောကိစ္စတို့၌ အချိန်ပေးကာနေတော်မူခဲ့ရပါသည်။ ဤသို့ဖြင့် လယ်တီဆရာတော်ကြီးသည် ကံတရား၏အလိုကို လွန်ဆန်ခြင်းငှာမစွမ်းသာဘဲ တရားဘာဝနာအားထုတ်မှုအလုပ်ကိုသာမက လောကနှင့်ဆက်စပ်နေသော ကိစ္စတို့ကိုလည်း ဆောင်ရွက်တော်မူခဲ့ရပါသည်။

ဤအပိုင်းတွင် လယ်တီဆရာတော်ကြီးအား တောရမွေ့လျော် တောရပျော်သော အရညဝါသီကမ္မဋ္ဌာန်းဘုန်းကြီးအဖြစ်ကိုသာမက လောကီမှုရေးရာဖြစ်သော အမျိုး,ဘာသာ,သာသနာတိုးတက်မြင့်မားရေးအတွက် ခေတ်အလိုက် ဦးဆောင်ပါဝင်တော်မူရကာ လူမျိုးနှင့်တိုင်းနိုင်ငံအကျိုး၊ ဘာသာသာသနာအကျိုးများကို မနေမနားသယ်ပိုးထမ်းရွက်တော်မူခဲ့သည့် ဆရာတော်ကြီးတစ်ပါး၏ အဖြစ်ကိုပါ တင်ပြထားပါသည်။ 'ထို့ပြင် ၁၂၆၅–ခုနှစ်ကစ၍ အထက်အောက်

*၁ အေဒီ ၁၉ဝ၄–ခုနှစ်၊ ဧပြီလမှ အေဒီ ၁၉၁၇–ခုနှစ်၊ ဧပြီလအထိ ဖြစ်သည်။

မြန်မာနိုင်ငံအတွင်း နှစ်ရှည်လများ တရားဟောလှည့်လည်တော်မူခဲ့ရကြောင်း'*၁ ဆရာတော်ကြီး ကိုယ်တော်တိုင်မှတ်တမ်းတင်ရေးသားထားတော်မူခဲ့သောကြောင့် ဤအပိုင်းတွင် ဆရာတော်ကြီး၏ နိုင်ငံအတွင်းတရားပွဲများစွာကျင်းပ၍ တရားဓမ္မဟောကြားခဲ့ရသော ဓမ္မကထိကဆရာတော်ကြီး အဖြစ်ကိုလည်းတွေ့မြင်ရပါမည်။ ထို့ပြင်မက ဆရာတော်ကြီးသည် ဤနိုင်ငံ၌ အင်္ဂလိပ်တို့အုပ်စိုး နေစဉ်ကာလအတွင်းဖြစ်သော်လည်း ဦးစွာပထမ မြန်မာလူမျိုးတို့အားစုစည်းစေ၍ ဘာသာရေး အသင်းအဖွဲ့များဖွဲ့စည်းပေးကာ အမျိုး,ဘာသာ,သာသနာအတွက် ညီညီညွတ်ညွတ် လှုပ်ရှား ဆောင်ရွက်စေပုံတို့ကိုလည်း ရှုမြင်ကြရပါမည်။*၂

သို့ပါသော် လယ်တီဆရာတော်ကြီးသည် ထိုထိုသောလောကအရေး,လောကအမှုတို့နှင့် ရောနှောဆက်စပ်ဆောင်ရွက်တော်မူရလင့်ကစား ထိုလောကအရေး, လောကအမှုတို့မှ မိမိ၏ ဘဝကိုငြိတွယ်မှုကင်းစေပြီး မိမိ၏ဘဝကို သီးသီးသန့်သန့် အကန့်ခြား၍ မိမိရည်မှန်းထားတော် မူပြီးဖြစ်သော ဓမ္မလမ်းစဉ်ဓမ္မလမ်းမအတိုင်းသာ မသွေမတိမ်းလျှောက်လှမ်းတော်မူခဲ့ပုံတို့ကို နွံ၌ပေါက် သောကြာသည် ရွှံ့ညွန်တို့လိမ်းကျံမှုကင်းလျက် ရွှံ့ညွန်တို့အကြားမှာပင် ခန့်ခန့်ထည်ထည် တည်ရှိနေသည့်အလား မှန်းဆကြည်ညိုကြရပါလိမ့်မည်။

## ကင်းဝန်မင်းကြီးအိမ်တရားပွဲ

လယ်တီဆရာတော်ကြီးသည် ကင်းဝန်မင်းကြီး(အေဒီ ၁၈၂၁–၁၉၀၈)၏မွေးစားသား မြို့အုပ်ဦးခင်မောင်ကြီးနှင့် 'မိုက်မလင်းနိုင်လို့'အစချီသောသံဝေဂလေးချိုးကို ကင်းဝန်မင်းကြီးထံ ပေးပို့ရာ ထိုသံဝေဂလေးချိုးကိုစေ့စေ့ဖတ်လေ ကင်းဝန်မင်းကြီးသည် မိမိကျင်လည်ခဲ့ရသော ဘဝဇာတ်ကြောင်းကိုပြန်လည်အမှတ်ရကာ သတိသံဝေရလေလေဖြစ်ခဲ့ရသည်။

တစ်ချိန်သောအခါက မင်းနေပြည်တော်နှင့်အလွန်ကွာလှမ်းသည့် ယောထီးလင်းကျေးရွာစပ် အလွန်ခေါင်သောအရပ်*၃ ၌လူဖြစ်ခဲ့ရပြီး၊ တစ်ချိန်သောအခါတွင် လွှတ်တော်ဝန်ကြီး၊ ရာဇတမန် မဟာမိတ်အဖြစ် အင်္ဂလန်,ပြင်သစ်,အီတလီစသောနိုင်ငံများသို့ရောက်ရှိခဲ့ပြီး၊ မင်းမိဖုရားမှတစ်ပါး အုပ်ချုပ်ရေးနယ်ပယ်တွင် ဂုဏ်ရှိန်အကြီးမားဆုံးပုဂ္ဂိုလ်ကြီးအဖြစ်သို့ရောက်ရှိခဲ့ရသည်၊ တစ်ချိန်သော အခါတွင် ဗိုလ်ပုံပရိသတ်အလယ်၌ သနပ်ခါးနှင့်ကျောက်ပျဉ်ကိုအပေးခံရကာ 'သည်လောက်

---

*၁ လယ်တီဆရာတော်ကြီး၏ ဣဏဘပရိဘောဂဝိနိစ္ဆယကျမ်း။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၃–ခုနှစ်။ (စာမျက်နှာ–၁၆)။

*၂ Guy Lubeigt' Introduction of Western Culture in Myanmar in the 19th Century' from Civilian Acceptance to Religious Resistance: in Essays in Commemoration of the Golden Jubilee of the Myanmar Historical Commission. MHC, Yangon, 2005. Page-380, 387-392.

*၃ မစ်ကိုင်းတိုင်း၊ မုံရွာခရိုင်၊ ပုလဲမြို့နယ်၊ မင်းတိုင်ပင်ရွာဇာတိဖြစ်သည်။ ဤဒေသသည် ထိုခေတ်က အတော်ခေါင်၍ 'လူကြုံရင်ပြောလိုက်ပ ယောစစ်ကချောင်း'ဟူသော ကဗျာပင် ရှိခဲ့ဖူးသည်။ 'ငချောင်း'ဟူသည် ကင်းဝန်မင်းကြီး၏ငယ်မည် မောင်ချောင်း–ကိုဆိုလိုသည်။



လယ်တီဆရာတော်ကြီးသီတင်းသုံး၍တရားဟောရာကင်းဝန်မင်းကြီးအိမ်



ကင်းဝန်မင်းကြီးဦးကောင်း

ကြောက်တတ်လျှင် မိန်းမလုပ်နေပေရော့’ဟုအငေါက်ခံခဲ့ရ၏။ တစ်ချိန်သောအခါတွင် တစ်တိုင်းပြည်လုံးသူ့ကျွန်ဖြစ်၍ မိမိကဲ့သို့ သတိုးသုဓမ္မမဟာသက်တော်ရှည်သည်ပင် လူမျိုးခြားတို့ပေးသောလစာကို လက်ဖြန့်ယူရကာ အာဏာလက်မဲ့ဖြစ်ခဲ့ရသည်။ ဤဖြစ်ရပ်များကို ရုပ်ပုံကားချပ်များသဖွယ်ရေးချယ်၍ တစ်ချပ်ပြီးတစ်ချပ်ဆက်စပ်လိုက်သော် လောကဓံအနိမ့်အမြင့်အတက်အကျတို့ကို သရုပ်ဖော်ပြသနေလေရာ၊ လယ်တီဆရာတော်ရေးစပ်သော ‘မိုက်မလင်း’ လေးချိုးနှင့် တစ်ထပ်တည်းကျနေသည်။ ယခုလို ‘ဇရာလက်မှာ အသက်သာကြွေတော့မည့်’ အချိန်တွင် ပို၍သတိတရားရဖွယ်ဖြစ်တော့သည်။

ယင်းလေးချိုးကြောင့် ကင်းဝန်မင်းကြီးသတိသံဝေဂကြီးစွာရလျက် အားကိုးဆည်းကပ်ရာတစ်ရပ်အနေဖြင့် လယ်တီဆရာတော်ထံပါးချဉ်းကပ်လိုငြားသော်လည်း သက်ရွယ်က(၈၀)ကျော်မှန်းတိုင်းမပေါက်, သွားတိုင်းမရောက်နိုင်သောအရွယ်ဖြစ်ချေပြီ။ ‘ဦးကောင်းလိမ်ထုတ် သီပေါပြုတ်’ဟု ရာဇဝင်မှာစာမြည်းထင်ခံခဲ့ရသော မိမိအဖို့မှာ မည်သည့်ဒေသကိုမျှ မသွားဝံ့မလာရဲ။ သို့ပါ၍ သားဖြစ်သူခင်မောင်ကြီးကိုပင် ‘ဒီလေးချိုးရေးသောပုဂ္ဂိုလ်ကို ငါ့ထံအမြန်ပင့်ပေးပါ၊ ဒါမှ ငါသက်သာရာရတော့မည်၊ မှီခိုစရာရှိတော့မည်’ဟု မိန့်ဆိုသည့်အတွက် မြို့အုပ်ဦးခင်မောင်ကြီးက ခမည်းတော်၏ပါရမီကိုဖြည့်စွက်လို၍– ‘ကင်းဝန်မင်းကြီးက လယ်တီဆရာတော်အားဖူးတွေ့လိုပါသည်၊ လယ်တီဆရာတော်ဟောသောတရားကိုနာယူလိုပါသည်’ဟူသော အကြောင်းပြဖြင့် ပင့်လျှောက်သည့်အတွက် သက္ကရာဇ် ၁၂၆၅–ခုနှစ်၊ တပေါင်းလ (အေဒီ ၁၉၀၄–ခုနှစ်၊ ဖေဖော်ဝါရီ/မတ်လ)တွင် လယ်တီဆရာတော်ကြီးသည် ကင်းဝန်မင်းကြီးရှိရာ မန္တလေးမြို့သို့ ကြွတော်မူခဲ့ရပါသည်။

မန္တလေးမြို့သို့ရောက်လျှင် နန်းမြို့တွင်းရှိ ကင်းဝန်မင်းကြီး၏စကြောသုံးဆက်အိမ်[*၁] တွင် အိမ်ဦးဆောင်၌ တည်းခိုသီတင်းသုံးတော်မူပြီး ရောက်တော်မူသည့်နေ့မှစ၍ ကင်းဝန်မင်းကြီး၊ လှေသင်းအတွင်းဝန်၊ ရွှေတိုက်ဝန်၊ ကျောက်မြောင်းအတွင်းဝန်ဦးရွှေအိုးအစရှိသော မှူးကြီး, မတ်ကြီး, ဝန်ထောက်, မြို့အုပ်, စာရေးတော်စသည့် လူပရိသတ်အပေါင်းတို့အား ဝိပဿနာနှင့်စပ်သော တရားဒေသနာတို့ကိုဟောကြားတော်မူခဲ့ပါသည်။ တရားပွဲပြီးသည့်အခါတိုင်း တရားနာပရိသတ်တို့က မိမိတို့သိလိုသောအချက်တို့ကို မေးမြန်းလျှောက်ထားကြရာ ဆရာတော်ကြီးကလည်း ရှင်းလင်းဖြေကြားတော်မူခဲ့ပါသည်။ ဤသို့ မေးလျှောက်တိုင်းဖြေကြားတော်မူသည့်အတွက် တရားနာယူရသူတို့က ‘ပိဋကတ်ကေသရာခြင်္သေ့ကြီး ဒေသစာလှည့်လည်၍လာခဲ့တာပဲ’ ဟူ၍ပင် ပြောဆိုကြလေသည်။[*၂]

တရားပွဲတစ်နေ့တွင် လယ်တီဆရာတော်ကြီးက ရုပ်နာမ်နှစ်ပါး ခန္ဓာငါးပါးကိုအခြေခံ၍ ဝိပဿနာသမထဘာဝနာ အားထုတ်ပုံအားထုတ်နည်းကို ကျနသေချာဟောပြောတော်မူသော

---

*၁ အဆောင်သုံးဆောင်ရှိသောအိမ်ကို ဆိုလိုသည်။

*၂ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၄၈)။

အခါ အသက်(၆၈)နှစ်အရွယ်ရှိ ကျောက်မြောင်းအတွင်းဝန်ဦးရွှေအိုး*၁ သည် တတွေတွေစီးယို သောမျက်ရည်တို့ဖြင့် လက်အုပ်ချီလျက်လျှောက်ထားသည်မှာ–

'အရှင်ဘုရား၊ အရှင်ဘုရားဟောပြောသော အဘိဓမ္မာသဘောအချက်အလက်ကြီးတွေကို နတ်ရွာစံဘဝရှင်မင်းတရားကြီး*၂ ကြားနာမသွားရရှာပါဘူးဘုရား၊ ကြားနာစေချင်လိုက်တာဘုရား။ ဘဝရှင်မင်းတရားကြီး၏မျက်နှာတော်ကို ပြေး၍မြင်မိပါသည်။ ဘုရား,ပုထိုး,ဂူ,ကျောင်း,ပြာသာဒ်,ဇရပ်ကြီးငယ်အသွယ်သွယ်တို့နှင့် ပိဋကတ်တော်တွေကို ကျောက်ထက်အက္ခရာတင်၍ ဓမ္မာနုဂ္ဂဟ, ပစ္စယာနုဂ္ဂဟထောက်ပံ့၍ သာသနာ့ဒါယကာအမည်ခံသွားသော်လည်း အတ္တဒိဋ္ဌိကိုတွန်းလှန်ဖြိုဖျက်၍ အနတ္တသမ္မာဒိဋ္ဌိမဂ္ဂင်ဝိဇ္ဇာဉာဏ်အလင်းနယ်သို့ ဆိုက်ရောက်အောင်ဟောပြောသည့် အဘိဓမ္မာသဘောသကန် တရားရင်းကြီးတွေကို ကြားနာမသွားရရှာသောကြောင့် ဝမ်းနည်း၍ မျက်ရည်တတွေတွေယိုစီးပါကြောင်း' လျှောက်ထားလေသည်။*၃

**အာနာပါနဒီပနီ**

ဤသို့လျှင် ကင်းဝန်မင်းကြီး၏အိမ်ဦး၌ လယ်တီဆရာတော်ကြီးသည် သုံးရက်,သုံးည တရားပွဲကျင်းပရာတွင် ထိုတရားနာပရိသတ်တို့တွင်အပါအဝင်ဖြစ်သော ကင်းဝန်မင်းကြီး၏ မွေးစားသား ပုသိမ်ကြီးမြို့အုပ်ဦးခင်မောင်ကြီးနှင့် မော်လမြိုင်ဇာတိ မန္တလေးမြို့အရေးပိုင်မင်းကြီးရုံး စာရေးကြီးမောင်ခင်တို့က လယ်တီဆရာတော်ကြီးအား မိမိတို့အသက်ထက်ဆုံးစွဲမြဲစွာအားထုတ်ရန် အာနာပါနကမ္မဋ္ဌာန်းအလုပ်များကို ထုတ်ဖော်ရေးသားကာပေးသနားတော်မူပါမည့်အကြောင်း တောင်းပန်လျှောက်ထားကြသည်။ ထိုအခါ ဆရာတော်ကြီးက မဇ္ဈိမနိကာယ်၊ ဥပရိပဏ္ဏာသပါဠိတော်လာ အာနာပါနသတိသုတ်(မ၊ ၃။၁၂၂။)ကို အနက်အဓိပ္ပာယ်၊ ရှင်းလင်းချက်၊ အားထုတ်စဉ်နှင့်တကွ ကင်းဝန်မင်းကြီး၏အိမ်ဦးမှာပင်သီတင်းသုံးခိုက် အမြန်ရှင်းလင်းရေးသားတော်မူ၍ပြီးစီးလျှင် ထိုကျမ်းကို 'အာနာပါနဒီပနီ'ဟုအမည်ပေးကာ ဒကာဦးခင်မောင်ကြီးသို့ပေးအပ်ခဲ့ပါသည်။*၄

---

*၁ ဦးရွှေအိုးမှာ မူလက ပြင်သစ်နိုင်ငံ ဗဟိုဝိဇ္ဇာနှင့်ထုတ်လုပ်မှုကျောင်းမှ သိပ္ပံဘွဲ့လွန်ပညာကိုသင်ယူခဲ့ပြီး သိပ္ပံပညာမဟာဝိဇ္ဇာဘွဲ့၊ မြို့ပြအင်ဂျင်နီယာဘွဲ့တို့ကိုရရှိခဲ့သူဖြစ်သည်။ ဤနိုင်ငံသို့ပြန်ရောက်ပြီး မင်းတုန်းမင်းလက်ထက်တွင် ဖန်ချက်ဝန်၊ နိုင်ငံခြားသွားမြန်မာ့သံအဖွဲ့ဝင်အဖြစ် တာဝန်ထမ်းခဲ့သည်။ သီပေါမင်းလက်ထက်တွင် မင်းကြီးသီရိမဟာဇေယျနန္ဒကျော်ထင်ဘွဲ့ဖြင့် ကျောက်မြောင်းမြို့ကိုစားစေကာ ဖြတိုက်တော်တွင် မဟာသေနာပတိအတွင်းဝန်ရာထူးကို ခန့်အပ်ခဲ့၍ 'ကျောက်မြောင်းအတွင်းဝန်'ဟုတွင်ခဲ့သည်။ ဒေါက်တာမျိုးသန့်တင်၏ ကုန်းဘောင်ခေတ်မြန်မာ့သိပ္ပံပညာရှင်များ။ စာပေလောကစာအုပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၈၄–ခုနှစ်။ (စာမျက်နှာ–၂၆၄)။

*၂ မင်းတုန်းမင်းကြီးကိုဆိုလိုသည်။

*၃ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၅၀)။ ကျောက်မြောင်းအတွင်းဝန်ဦးရွှေအိုးသည် လယ်တီဆရာတော်ကြီးထံမှတရားနာယူပြီး နောက်တစ်နှစ် (အေဒီ ၁၉၀၅–ခုနှစ်)၊ အသက်(၆၉)နှစ်တွင် ဓမ္မတရားရိပ်၌နိုလ့်ကာ ကွယ်လွန်ခဲ့ပါသည်။

*၄ လယ်တီဆရာတော်ကြီး၏ အာနာပါနဒီပနီနှင့် ဓာတ်ကမ္မဋ္ဌာန်းကျမ်းသစ်၊ ရူပဒီပနီ၊ နိဗ္ဗာနဝိသဇ္ဇနာ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၁)။



လှေသင်းအတွင်းဝန်



ရွှေတိုက်အတွင်းဝန်ဦးလှဘူး



ကျောက်မြောင်းအတွင်းဝန်
ဦးရွှေအိုး

မန္တလေးမြို့အနောက်ပြင် ချမ်းသာကြီးကျောင်းတိုက်

**လယ်တီအရှင်ကိတ္တိရောက်ရှိခြင်း**

အရှင်ကိတ္တိသည် လယ်တီဆရာတော်ကြီး၏အမိန့်တော်အရ နယ်ခြားခေါ် ပျဉ်းမနားသို့ သွားရောက်၍ တောတောင်စိမ့်စမ်းလျှိုမြောင်နှင့်ပြည့်စုံပြီး တရားဘာဝနာအလုပ်ကိုအားထုတ်ရန် သင့်မြတ်သောနေရာဌာနကိုကြည့်ရှုရာ ပျဉ်းမနားမြို့တွင် တောအုပ်ကြီးဦးစံချိန်ဆိုသူနှင့်တွေ့ဆုံမိလေသည်။ ထိုတောအုပ်ကြီးဦးစံချိန်ကလည်း အရှင်ကိတ္တိ၏ရူပကာယနှင့် အပြောအဆိုကို ဖူးမြင်ရချင်းပင် နှစ်သက်ကြည်ညို၍ သားရဟန်းအမှတ်ဆည်းကပ်ခဲ့သည်။ ထို့ပြင် အရှင်ကိတ္တိက ဦးစံချိန်အား တရားဘာဝနာဟောကြားရာ တောအုပ်ကြီးဦးစံချိန်မှာ အရှင်ကိတ္တိကို တိုး၍ပင် ကြည်ညိုလာသည်ဖြစ်၍ အရှင်ကိတ္တိအလိုရှိသည့်အတိုင်း ပျဉ်းမနားမြို့ အနောက်မြောက်ဘက်ရှိ တောင်ကုန်းတောင်တန်း၌ ရှေးအခါကပင် တောရဝင်လိုသောဆရာတော်ကြီးများ တောရဆောက်တည်ခဲ့ကြသည့် တောရများစွာရှိပြီးလျှင် ထိုတောရတို့မှ နှစ်သက်ရာတောရတစ်ခုခုတွင် တောရဆောက်တည်နိုင်ရန် အစီအစဉ်ပြုပေးခဲ့သည်။ ထို့ပြင် ပျဉ်းမနားသို့ လယ်တီဆရာတော်ကြီးကို ပင့်ဆောင်ရန် အရှင်ကိတ္တိနှင့်အတူ မန္တလေးမြို့သို့လိုက်ပါလာလေသည်။ ဤသို့ သစ်ခေါက်ဆိုးသင်္ကန်းကိုဝတ်ရုံ,သပိတ်လွယ်လျက် တောကျောင်းနေရဟန်းအသွင် အရှင်ကိတ္တိရောက်ရှိလာသည်ကိုဖူးမြင်ကြရသော ကင်းဝန်မင်းကြီးဦးကောင်းအိမ်၌ရှိနေကြသည့် တရားနာပရိသတ်အပေါင်းတို့မှာ လွန်စွာကြည်ညိုခဲ့ကြသည်။[*၁]

လယ်တီဆရာတော်ကြီးက မိမိအား ပျဉ်းမနားသို့ပင့်ဆောင်ရန် အရှင်ကိတ္တိနှင့်အတူပါလာသော တောအုပ်ကြီးဦးစံချိန်ကို ယခုဝါတွင်းကာလသို့ရောက်လျှင် သင်တို့၏ပျဉ်းမနားမြို့အနီးဝန်းကျင်ရှိတောရတွင် ငါတို့ဝါကပ်ဆိုမည်။ ယခုအခါမှာ တပေါင်းလရှိသေး၍ မုံရွာမြို့ လယ်တီတိုက်တွင် အလုပ်ကိစ္စများဆောင်ရွက်ရန် ခေတ္တပြန်ကြွဦးမည်–ဟု မိန့်ဆိုတော်မူခဲ့ပါသည်။

**ချမ်းသာကြီးကျောင်းတရားပွဲ**

ကင်းဝန်မင်းကြီး၏အိမ်မှ မုံရွာမြို့သို့ လယ်တီဆရာတော်ကြီးပြန်ကြွမည်ဟူသောသတင်းကို မန္တလေးမြို့ ချမ်းသာကြီးတိုက်ဆရာတော်ဦးပဏ္ဍိစ ကြားသိလျှင် မိမိနှင့် မန္တလေးမြို့ စံကျောင်းတိုက်တွင် စာအတူသင်ဖက်ဖြစ်သော ဒဋ္ဌိမိတ္တလယ်တီဆရာတော်ကို ချမ်းသာကြီးဆရာတော်ကိုယ်တိုင် တပည့်သံဃာပရိသတ်အခြံအရံတို့ဖြင့် ကင်းဝန်မင်းကြီးအိမ်မှ ချမ်းသာကြီးတိုက်[*၂] သို့ ခမ်းနားစွာလာရောက်ပင့်ဆောင်ခဲ့လေသည်။

---

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၄၈)။

*၂ ချမ်းသာကြီးတိုက်သည် မန္တလေးမြို့အနောက်ပြင် ပွဲကုန်းရပ်တွင်တည်ရှိသည်။ ဤချမ်းသာကြီးတိုက်သည် အင်းဝခေတ်ကပင် အင်းဝ၌ရှိခဲ့သောတိုက်ကြီးဖြစ်သည်။ ချမ်းသာကြီးတိုက် ပထမဆရာတော်ကြီးမှာ အင်းဝခေတ်ကထင်ရှားသော ညောင်ကန်အရှင်ဉာဏ်နှမထေရ်ကြီးဖြစ်သည်။ ချမ်းသာကြီးတိုက်ကို အင်းဝမှ အမရပူရ၊ ထိုမှ မန္တလေးသို့ ပြောင်းရွှေ့ခဲ့သည်။ သက္ကရာဇ်–၁၂၅၉ (အေဒီ–၁၉၀၇)ခုနှစ်တွင် အရှင်ပဏ္ဍိစအား မန္တလေးမြို့ ချမ်းသာကြီးတိုက်၌ ဦးဆယ်၊ ဒေါ်အုပ်တို့က အလယ်ကျောင်းကြီးဆောက်လုပ်လှူဒါန်းခဲ့၍ အရှင်ပဏ္ဍိစ ကြွရောက်ကာ စာဝါများပို့ချသီတင်းသုံးခဲ့ခြင်းဖြစ်သည်။ အရှင်ကေလာသ၏စစ်ကိုင်းသာသနာဝင်။ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ–၃၁၆)။

ချမ်းသာကြီးတိုက်သို့ရောက်လျှင် အသစ်ဆောက်လုပ်ပြီးစ အလယ်တိုက်ကြီးအထက်ထပ်၌ လယ်တီဆရာတော်ကြီးကိုသီတင်းသုံးစေပြီး လယ်တီဆရာတော်ကြီးသည် ချမ်းသာကြီးတိုက် အတွင်း အထူးဆင်ယင်ထားသောတရားဟောမဏ္ဍပ်တွင် ရှင်လူပရိသတ် တစ်သောင်းကျော် တို့အား ထူးခြားနက်နဲသော အဘိဓမ္မာတရားတော်တို့ကို ငါးညတိုင်တိုင် ဟောကြားတော် မူခဲ့ရပါသည်။*၁ ဤအခါတွင် မန္တလေးမြို့သူမြို့သားအများပင် လယ်တီဆရာတော်ကြီး၏ဂုဏ် သတင်းကို သိခွင့်ရကြလေသည်။

ထိုအချိန်၌ ပရမတ္ထဒီပနီကျမ်းမှာပေါ်ထွက်နေပြီဖြစ်ရာ အချို့သောပုဂ္ဂိုလ်တို့က လယ်တီ ဆရာတော်ကြီး၏ပရမတ္ထဒီပနီကျမ်းလာ ဋီကာကျော်ပယ်ချက်တို့ကို အကွက်ကျကျ စောဒက တက်၍ အဖြေရခက်အောင် ပညာစမ်းမည်–ဟု ကြံရွယ်ပြီးလာကြသော်လည်း လယ်တီဆရာ တော်၏ ရဲရင့်တည်ကြည်သောဥပမိနှင့် အဟောအပြောကို နာကြားကြရသောအခါ 'ခြသေ့် လက်ဝယ် ဆိတ်သူငယ်' ကဲ့သို့ ဖြစ်ကြရကာ ဆွံ့အ,လျက် နောက်ဆုတ်သွားခဲ့ကြရသည်။*၂

## ရွာပြန်လက်ဆောင်

လယ်တီဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၆၅–ခုနှစ်၊ တပေါင်းလ (အေဒီ ၁၉၀၄–ခုနှစ်၊ မတ်လ)မှာပင် မန္တလေးမြို့မှမုံရွာမြို့သို့ပြန်လည်ကြွမြန်းတော်မူခဲ့ပါသည်။ မုံရွာမြို့ လယ်တီတောရ တိုက်သို့ရောက်တော်မူလျှင် ကုလားတက်ခေါက်၍ တိုက်အတွင်းရှိသံဃာများကို စုဝေးစေ သည်။ အရှင်ဉာဏောဘာသ အမှူးရှိသော တိုက်သံဃာအပေါင်းတို့ ဆရာတော်ကြီးရှေ့တော် မှောက်ရောက်ကြသောအခါ ယခုကဲ့သို့ သံဃာတော်များစုဝေးစေရသောအကြောင်းကို အောက်ပါ အတိုင်း မိန့်ကြားတော်မူပါသည်။

> 'ယနေ့ အောက်ပြည်အောက်ရွာမှအပြန် သက်န်း,သပိတ်,ထီး,ဖိနပ်,ကော်ဇော, ပရိက္ခရာ အသုံးအဆောင်များပါလာ၍ တိုက်တာသံဃာများအား ဝေငှလှူဒါန်းရန် ကုလားတက်ခေါက်၍ခေါ်သည်မဟုတ်၊ မနက်ဖြန်ခါ စာချရန်အတွက်ဖြစ်သည်။ ဒီက တို့ပါသွားသော လက်စွပ်အိတ်နှင့် သက်န်းသုံးထည်ပင်လျှင် ပြန်ပါလာတယ်။ အပိုအလျှံဟူ၍ ဘာတစ်ခုမှမပါဘူး။ တစ်မြို့မှရရှိသော သက်န်းပရိက္ခရာအသုံး အဆောင်ဟူသမျှတို့ကို တစ်မြို့သို့မယူရ၊ သူ့မြို့သူ့ရွာမှာရှိကြတဲ့ စာသင်တိုက် များအား ဝေငှလှူဒါန်းခဲ့တယ်'ဟူ၍ ဖြစ်ပါသည်။*၃

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၄၇)။

*၂ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၁၄၈)။

*၃ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၇၃)။

ပျဉ်းမနား*၁

လယ်တီဆရာတော်ကြီးသည် မန္တလေးမြို့မှပြန်ကြွ၍ မုံရွာမြို့ လယ်တီတိုက်၌ သီတင်းသုံးနေစဉ် ပျဉ်းမနားမြို့က တောအုပ်ကြီးဦးစံချိန်သည်လည်း ပျဉ်းမနားမြို့သို့ပြန်သွားပြီး ပျဉ်းမနားသို့ရောက်လျှင် မြို့အုပ်မင်းဦးဘိုးမြနှင့် မြို့အုပ်ကတော်ဒေါ်စောတို့အား လယ်တီဆရာတော်ကြီး၏ ဂုဏ်သတင်းတို့ကို ပြန်လည်ပြောပြခဲ့သည်။

ပျဉ်းမနားမြို့အုပ်နှင့် မြို့အုပ်ကတော်တို့သည် လယ်တီဆရာတော်ကြီး၏ဂုဏ်သတင်းကို ကြားရုံမျှဖြင့် အလွန်အမင်းကြည်ညိုကြကာ ဖူးမြင်လိုကြသောကြောင့် လယ်တီဆရာတော်ကြီးအား ပျဉ်းမနားမြို့သို့သာသနာပြုကြွတော်မူပါရန် ပျဉ်းမနားမြို့အုပ်မင်းဦးဘိုးမြက ပင့်လျှောက်စာရေး၍ ဆရာတော်ကြီး၏ထံတော်သို့ပေးပို့ခဲ့ကြသည်။

မြို့အုပ်ဦးဘိုးမြနှင့် ဒေါ်စော

သဒ္ဓါတရားထက်သန်လှသော ဤမြို့အုပ်ဦးဘိုးမြသည် မူလကရေနံချောင်းမှ ရေနံတွင်းစားမျိုးရိုး ကြွယ်ဝသူဖြစ်သည်။ အသက်(၂၄)နှစ်အရွယ် မင်းတုန်းမင်းလက်ထက်တွင် နယ်ကျန်(ပျဉ်းမနား)နှင့် ရမည်းသင်း နှစ်မြို့စာရေးကြီး၊ သားတော်သီပေါမင်းလက်ထက်တွင် ညောင်ရမ်း၊ လှိုင်းတက်၊ သာဂရ–စသည် သုံးမြို့တိုး၍ ငါးမြို့စာရေးတော်ကြီးအဖြစ်ခန့်အပ်ခြင်းခံခဲ့ရသည်။ အင်္ဂလိပ်လက်ထက် အေဒီ ၁၈၉၁–ခုနှစ်၌ မြို့အုပ်ဖြစ်လာသည်။ နောင်အခါ ATM ဒေါ်အမှုထမ်းကောင်းစားရမင်း–တံဆိပ်ကိုပင်ရရှိခဲ့သည်။*၂

မြို့အုပ်ကတော်ဒေါ်စောမှာ ပျဉ်းမနားဇာတိ သက္ကရာဇ်၁၂၂၃(အေဒီ–၁၈၆၁)ခုနှစ်ဖွားဖြစ်ပြီး၊ အရွယ်ရောက်သော် ဦးဘိုးမြနှင့်လက်ဆက်သည်။*၃ ဦးဘိုးမြနှင့်ဒေါ်စောတို့ဇနီးမောင်နှံသည်

*၁ ပျဉ်းမနားသည် ရှမ်းစကား ပင်မုံန > ပင်မနား > ပျဉ်းမနား–ဖြစ်လာသည်ဟု ယူဆသည်။ (ပင်=စခန်း+မုံ=အသီး+န=ဖန်ခါး > ဖန်ခါးသီးစခန်းဟု အဓိပ္ပာယ်ရှိသည်။) ဤမြို့ကို အေဒီ ၁၃၀၄–ခုနှစ်ကပင် တည်ရှိခဲ့ပြီး၊ ရှေးရှေးကပင် ရှမ်းပြည်နယ်မှကူးသွယ်လာကြသော ရှမ်းများစွာတို့ စခန်းချနားနေခဲ့သောနေရာဖြစ်ဟန်ရှိသည်။ ယခုတိုင် ပျဉ်းမနားတွင် ရှမ်းစုကြီး၊ ရှမ်းစုကလေး၊ ရှမ်းကန်၊ ရှမ်းကျောက်တောင်–စသည့်ဌာနများရှိနေသည်။ ပျဉ်းမနားကို 'နင်းကြမ်း' ဟုရှေးကခေါ်ခဲ့သည်မှာ ရွာကောက်အနီး ငါးလိုက်ချောင်းတွင် တံတားကလေးတစ်ခုရှိရာ ထိုတံတားကို နင်းကြမ်း–ဟုခေါ်တွင်ရာမှ နင်းကြမ်းမြို့ ဖြစ်လာသည်။ အင်္ဂလိပ်–မြန်မာ ဒုတိယစစ်ပွဲအပြီး နယ်မြေခွဲကြရာ၊ ဤနင်းကြမ်းမြို့သည် တောင်ငူလက်အောက်ခံ(၅၅)မြို့တွင်အပါအဝင်ဖြစ်ပြီး၊ တောင်ငူလက်အောက်ခံမြို့များစွာသည် အင်္ဂလိပ်လက်အောက်သို့ ရောက်ခဲ့ရသော်လည်း နင်းကြမ်းအပါအဝင် (၁၂)မြို့မှာ မြန်မာမင်းပိုင်သည့်ဘက်၌ကျန်ရစ်ခဲ့သောကြောင့် 'နင်းကြမ်း' ကို 'နယ်ကျန်'၊ ရံခါ 'တောင်ငူနယ်ကျန်' ဟုလည်းခေါ်ခဲ့ကြသည်။ အင်္ဂလိပ်လက်ထက်၌ 'နင်းကြမ်း (NYINGYAN) ကို မြင်းခြံ (MYINGYAN) အမည်နှင့် မကြာခဏမှားယွင်းရေးသားမိသည့်အတွက် 'နင်းကြမ်း' နေရာတွင် 'ပျဉ်းမနား' ဟု ခေါ်တွင်ခဲ့လေသည်။ ဆင်ကျုံးဆရာတော်၏ ရမည်းသင်းခရိုင်သမိုင်းနှင့် ရမည်းသင်းရာဇဝင်။ အောင်သစ္စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၉၄–ခုနှစ်။ (စာမျက်နှာ–၂၅)။

*၂ ဦးဘိုးမြ မည်သည့်နှစ်၌ကွယ်လွန်ကြောင်း မသိရသော်လည်း ဦးဖုဒ္ဓေါ်တောရ၌ ဦးဘိုးမြဂူရှိခဲ့သည်။

*၃ ဒေါ်စောသည် သက္ကရာဇ် ၁၂၆၈–ခုနှစ်၊ တပို့တွဲလဆုတ် ၁၁–ရက်၊ ကြာသပတေးနေ့ (အေဒီ–၇၊ ဖေဖော်ဝါရီ၊ ၁၉၀၇–ခုနှစ်) အသက်(၄၅)နှစ်တွင် ကွယ်လွန်သည်။

သာသနာတော်၌အလွန်သဒ္ဓါတရားရှိသူများဖြစ်၍ သက္ကရာဇ်–၁၂၅၈ (အေဒီ–၁၈၉၆)ခုနှစ်တွင် ရွှေကျင်တိုက်အတွင်း စတုသဃ်ိကကာရီဇရပ်ကြီးနှင့် ရေတွင်း၊ သက္ကရာဇ်၁၂၆၀–ပြည့်၊ နတ်တော်လ (အေဒီ ၁၈၉၈–ခုနှစ်၊ နိုဝင်ဘာလ)တွင် ပျဉ်းမနားမြို့မ တပ်ကွာသခင်လမ်း(?)၏ လက်ယာဘက်၌အုတ်ရေအိုးစင်၊ သက္ကရာဇ်–၁၂၆၂(အေဒီ–၁၉၀၀)ခုနှစ်တွင် လောကမာရဇိန် ဘုရား၌သဃ်ိကဇရပ်နှင့်အုတ်ရေအိုးစင်, ခေါင်းလောင်းကြီး၊ ၎င်းနှစ် ကဆုန်လဆန်း–၁၀ (အေဒီ–၈၊ ဧပြီလ၊ ၁၉၀၀–ပြည့်နှစ်)တွင် တောရဆရာတော်ဦးပုဒ္ဓေါ်အားကျောင်းတိုက်၊ သက္ကရာဇ်–၁၂၆၃ (အေဒီ–၁၉၀၁) ခုနှစ်တွင် ဦးပုဒ္ဓေါ်ကျောင်းတိုက်အတွင်း အရှေ့ဘက်၌ စတုသဃ်ိကရေကန်, ရေတွင်းဇရပ်၊ သက္ကရာဇ်၁၂၆၄–ခုနှစ်၊ တန်ဆောင်မုန်းလဆန်း–၄(အေဒီ–၃၊ နိုဝင်ဘာလ၊ ၁၉၀၂–ခုနှစ်)ရက်နေ့တွင် ဦးပုဒ္ဓေါ်တောရအတွင်း ဖေယျသေနခဏ္ဍသိမ် စသည့်ကောင်းမှုအလီလီကို ပြုခဲ့ကြပြီးဖြစ်သည်။[*၁]

## လယ်တီဆရာတော်ကြီး ပျဉ်းမနားသို့ကြွတော်မူခြင်း

သက္ကရာဇ်၁၂၆၆–ခုနှစ်၊ နှစ်ဦးဆန်းစ ကဆုန်လဆန်း၅–ရက် (အေဒီ–၁၈၊ ဧပြီလ၊ ၁၉၀၄–ခုနှစ်)တွင် ပျဉ်းမနားမြို့ မြို့အုပ်မင်းအမှူးရှိသော မြို့သူမြို့သားအပေါင်းတို့၏ပင့်လျှောက်ချက်အရ လယ်တီဆရာတော်ကြီးသည် တပည့်လယ်တီပဏ္ဍိတ၊ လယ်တီကိတ္တိတို့နှင့် အခြားနောက်ပါသံဃာတို့ခြံရံကာ ပျဉ်းမနားမြို့သို့ကြွတော်မူခဲ့ပါသည်။ ပျဉ်းမနားမြို့သို့ရောက်လျှင် ပျဉ်းမနားမြို့ ရှမ်းကန်အနီး တောင်ကုန်းမြင့်ပေါ်ရှိ ရှေးရှေးက တောင်ငူ နယ်ကျန်မြို့ဝန် ဆောက်လုပ်လှူဒါန်းအပ်သော ပြာသာဒ်ကျောင်းကြီး[*၂] တွင် ခေတ္တသီတင်းသုံးတော်မူခဲ့ပါသည်။

ဤပြာသာဒ်ကျောင်းကြီးမှာ ရှေးက နယ်ကျန်ဂိုဏ်းချုပ်ဆရာတော်ဦးသုနန္ဒ သီတင်းသုံးနေခဲ့သောကျောင်းကြီးဖြစ်သည်။ ဦးသုနန္ဒသည် မင်းတုန်းမင်းလက်ထက်က မန္တလေးမြို့သို့ကြွ၍ နန်းတွင်း၌တရားဟောတော်မူရာ တောရကျောင်းဘုန်းကြီးပီပီ ထီးသုံးနန်းသုံးကိုမငဲ့ဘဲ လူသာမန်တို့ကိုဟောပြောသကဲ့သို့ ဟောပြောသည်။ မင်းတုန်းမင်းကြီးကိုပင် 'ဒကာကြီး'ဟုခေါ်ခဲ့သည်။ မင်းတုန်းမင်းသည် အပိုအဆာမပါ ရိုးရိုးရှင်းရှင်းဟောသော ဦးသုနန္ဒ၏တရားကိုနှစ်သက်၍ နယ်ကျန်မြို့ဝန်အား ဤဆရာတော်ကိုဆည်းကပ်၍ အလိုရှိရာဆောင်ရွက်ပေးရန် မိန့်ကြားထားသည်။ မြို့ဝန်ကလည်း ဆရာတော်အလိုရှိရာညွှန်ပြပါဟုလျှောက်ထားသောအခါ ရှမ်းကန်၊ မြင်းကျကန်နှင့် ရှမ်းကျောက်တောင်တို့၏အနီးတွင် သီတင်းသုံးနေလိုကြောင်းနှင့် ဤနေရာကို ဘေးမဲ့အရပ်ဟုသတ်မှတ်ပေးစေလိုကြောင်း မိန့်ကြားသောကြောင့် ဤနေရာကို ဘေးမဲ့နယ်သတ်မှတ်ပြီး ဆရာတော်သီတင်းသုံးရန် ယင်းကန်ဘေးရှိတောင်ကုန်းပေါ်တွင် ပြာသာဒ်ကျောင်းတစ်ဆောင် ဆောက်လုပ်ပေးခဲ့သည်။ ဦးသုနန္ဒပျံလွန်သော် ကျောင်းကြီးကိုစောင့်ရှောက်မည့်

---

*၁ သက္ကရာဇ် ၁၂၆၉ (အေဒီ–၁၉၀၇)ခုနှစ်ထိုး မြို့အုပ်ကတော်ဒေါ်စော၏ကောင်းမှုကျောက်စာမှ။

*၂ ဤကျောင်းကြီးနေရာသည် ယခု လယ်တီစံကျောင်းနေရာပင်ဖြစ်သည်။

ပုဂ္ဂိုလ်မရှိဘဲရှိနေရာ ယခုလယ်တီဆရာတော်ကြီး ပျဉ်းမနားနယ်ကျန်သို့ကြွတော်မူလာသော အခါ ဆရာတော်ကြီးကို ဤကျောင်းနေရာ၌ခေတ္တသီတင်းသုံးရန် စီမံခဲ့ကြခြင်းဖြစ်သည်။[*၁]

**နိရုတ္တိဒီပနီနိဿယနံကျဉ်း**

လယ်တီဆရာတော်ကြီးသည် ပျဉ်းမနားမြို့ ရှမ်းကန်အနီးတောင်ကုန်းပေါ်ရှိ ပြာသာဒ် ကျောင်းတွင် ခေတ္တသီတင်းသုံးနေခိုက် မိမိပြုစုခဲ့သော နိရုတ္တိဒီပနီပါဠိအမည်ရှိသောသဒ္ဒါကျမ်း သည် ပါဠိဘာသာဖြင့်စီရင်ထားသည်ဖြစ်၍ ပါဠိဘာသာမကျွမ်းကျင်သူတို့အဖို့ အခက်အခဲတွေ့နိုင် သည်ဖြစ်ရာ ထိုကျမ်းကို နိဿယပြန်ရလျှင် ကောင်းလေစွဟူသောဆန္ဒဖြစ်ပေါ်လာခဲ့သည်။ သို့ဖြစ်၍ ဤပျဉ်းမနားနယ်ကျန်တွင် သီတင်းသုံးနေခိုက် ဝါမဝင်မီကာလအတွင်း နိရုတ္တိဒီပနီပါဠိ၏ နိဿယကို အကျယ်မဟုတ်ဘဲ နံကျဉ်း(အနက်ပေါ်လွင်ရုံအကျဉ်းအားဖြင့်)နိဿယပြန်ဆိုတော် မူရာ၊ ထိုနှစ် နယုန်လ (အေဒီ ၁၉၀၄–ခုနှစ်၊ မေလ) မှာပင် ပြီးစီးအောင်မြင်ခဲ့ပါသည်။[*၂]

**ဗောဓိပက္ခိယဒီပနီ**

လယ်တီဆရာတော်ကြီး ပျဉ်းမနားမြို့သို့ဆိုက်ရောက်တော်မူပြီးနောက် သက္ကရာဇ် ၁၂၆၆– ခုနှစ်၊ နယုန်လ (အေဒီ ၁၉၀၄–ခုနှစ်၊ မေလ)တွင် ပျဉ်းမနားမြို့အုပ်ဦးဘိုးမြနှင့် ကုန်သည်ဦးဘိုးလှ တို့သည် အောက်ပါစာလွှာတစ်စောင်ကိုရေး၍ ဆရာတော်ဘုရားကြီးလက်တော်ရောက်ဆက်သ ခဲ့ကြပါသည်။ ယင်းတို့မှာ–

'ဘုရားတပည့်တော် ပျဉ်းမနားမြို့အုပ်ဘိုးမြ၊ ကုန်သည်ဘိုးလှတို့ ခြေတော် ဦးခိုက် လျှောက်ဝန့်ပါသည် ဆရာတော်သခင် အရှင်သူမြတ်ဘုရား။

တပည့်တော်တို့မှာ ငါးဖြာခဲစွ ဒုလ္လဘတွင် မနုဿတ္တအစ လေးဝသောဒုလ္လဘ ကို တွေ့ကြုံကြုံကြရပါကုန်သော်လည်း ပိဋကတ္တယသာဠကထကောဝိဒဉာဏ် ကျမ်းဂန်၏အရာကို မလိမ်မာမသိ တတ်မြောက်ခြင်းမရှိပါသောကြောင့် ဗောဓိပက္ခိယ ဓမ္မအကျော် တရားတော် ၃၇–ဖြာ[*၃] ၏အဓိပ္ပါယတ္တသဘာဝကို ကျနမှန်ကန် ဝေဘန် ခြင်းရာ သိသာခြားနား မှတ်သားဉာဏ်တွင် ထင်မြင်လိုလှသည်ဖြစ်ပါ၍ တပည့်တော် တို့မှအစ များလှတွက်ရေ ဝေနေယျဗန္ဓဂူ ရှင်လူအပေါင်းတို့အား မှတ်သားသိမြင်ကြ ရပါသော် များမြောင်လောက ဝေနေယျတို့ကို သိကြမှတ်ကြ တတ်ကြစေလို မဂ်ဖိုလ်အမြိုက် ရထိုက်သင့်သူ ရစေဟူ၍ ကြည်ဖြူသောကရုဏာတော်ရှင်း နှလုံး သွင်းရှိတော်မူပါသည်နှင့်အညီ ဗောဓိပက္ခိယဒီပနီ စီရင်ရေးသား သနားချီးမြှောက်

[*၁] ဆင်ကျုံးဆရာတော်၏ ရမည်းသင်းခရိုင်သာသနာဝင်သမိုင်း။ ၁၉၉၆–ခုနှစ်။ (စာမျက်နှာ–၄၇၃)။

[*၂] လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီကျမ်း၏ နိဿယနံကျဉ်း။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၇–ခုနှစ်။ (စာမျက်နှာ–၂၀၃)။

[*၃] ဗောဓိပက္ခိယ(၃၇)ပါးဟူသည်– (၁) သတိပဋ္ဌာန် ၄–ပါး၊ (၂) သမ္မပ္ပဓာန် ၄–ပါး၊ (၃) ဣဒ္ဓိပါဒ် ၄–ပါး၊ (၄) ဣန္ဒြေ ၅–ပါး၊ (၅) ဗိုလ် ၅–ပါး၊ (၆) ဗောဇ္ဈင် ၇–ပါး၊ (၇) မဂ္ဂင် ၈–ပါးတို့ဖြစ်ကြသည်။ ဝိသုဒ္ဓိ၊ ၄၊ ၂။ ၃၁၈–တွင် အကျယ်ရှုပါ။

မုံရွာမြို့။

**လယ်တီဆရာတော်ဘုရားကြီး**

ရေးသားတော်မူအပ်သော

**နိရုတ္တိဒီပနီကျမ်း၏**

**နိဿယနံ့ကျဉ်း**

ပထမနှိပ်ခြင်းစာအုပ်ရေ-၂၀၀၀

သက္ကရာဇ် ၁၂၆၇ ခု၊ သီတင်းကျွတ်လအတွင်း
ပုံနှိပ်၍ပြီးသည်။

ရန်ကုန်မြို့၊
၂၅-လမ်းစာသိတန်း၊တိုက်နံပါတ်-၄၉
ကဝိမျက်မှန်စာပုံနှိပ်တိုက်၊
မအေးမေ၊

---

သာသနာတော်မြတ်၏၊ မူလဘူတ၊ပရိယတ္တိဓမ္မ၊ဂန္ထန္တရ၊
ဟုသမ္မုတိရှိ၊ မကာရလောပဟု၊ ကိတ္တိသဒ္ဒ၊ ပါကဋ
ဥဒါန်းရှင့်အစစ်၊ ဖြစ်တော် မူသော မုံရွာမြို့
အရည်ကင်း၊ရွာတင်နိဂုံး၊သိလရုံညီ၊

**လယ်တီတောရဆရာတော်။**

ရေးသားစီရင်တော်မူအပ်သော၊

**ဗောဓိပက္ခိယဒီပနီကျမ်း။**

နှင့်၊
အာဟာရဒီပနီကျမ်း၊
ဩဝါဒကထာ ကျမ်းများကို၊
စာတအုပ်ထည်းပြု၍၊
ပုံရိုက်လုပ်ဆောင်ပါသည်၊

၁၂၆၈-ခု၊ကဆုန်လအတွင်း၊
ပုံနှိပ်၍ပြီးစီးပါသည်၊

THE THUDHAMAWADI PRESS

ရန်ကုန်မြို့၊
စစ်ကဲ့မောင်ခိုင်လမ်း-အောက်ဝေ- ၅၀၊
သုဓမ္မဝတီစာပုံနှိပ်တိုက်၊
စာစောင်ရေ-၅၀၀၀၊
No.-3

လယ်တီဆရာတော်ကြီး ပျဉ်းမနားမြို့သို့ရောက်ရှိစဉ် ပြုစုတော်မူသောကျမ်းများ



ပျဉ်းမနားမြို့ အနောက်မြောက်ဘက်ရှိ အင်ကြင်းမြောင်တောရ

တော်မူပါမည့်အကြောင်း ညွှတ်ပြောင်းရှိသေ ခြေတော်ဦးခိုက် လျှောက်ဝန့်ပါသည် ဆရာတော်သခင် အရှင်သူမြတ်ဘုရား' –ဟူ၍ဖြစ်သည်။*၁

ဗောဓိပက္ခိယတရား(၃၇)ပါးကို လယ်တီဆရာတော်ကြီးက ပိဋကတ်သုံးပုံ၏ဒွါဆီအနှစ်ဖြစ်ပုံကိုဖော်ပြရာတွင်–

'ဘုရားအဖြစ်သို့ရောက်တော်မူ၍ (၄၅) ဝါကာလပတ်လုံး ဟောကြားတော်မူအပ်သော ပိဋကတ်သုံးပုံကိုအဆီညှစ်၍ အနှစ်သားကိုထုတ်ယူသည်ရှိသော် ဗောဓိပက္ခိယတရား(၃၇)ပါးရ၏။ ဗောဓိပက္ခိယတရား(၃၇)ပါးသည် ပိဋကတ်သုံးပုံ၏အဆီအနှစ်တည်း။ တစ်ဖန် ဗောဓိပက္ခိယတရား(၃၇)ပါးကို အကျဉ်းချုံးပြန်သည်ရှိသော် ဝိသုဒ္ဓိခုနစ်ပါးဖြစ်၏။ တစ်ဖန် ဝိသုဒ္ဓိခုနစ်ပါးကိုအကျဉ်းပြန်သည်ရှိသော် သီလ,သမာဓိ,ပညာ– သုံးပါးဖြစ်၏။ အဓိသီလ,အဓိစိတ္တ,အဓိပညာ– သာသနာတော်ကြီးသုံးပါးခေါ်၏။သိက္ခာသုံးပါးလည်းခေါ်၏'*၂–ဟူ၍ တစ်ဆင့်စီရှင်းလင်းထားခြင်းဖြစ်ပါသည်။

ဤဗောဓိပက္ခိယဓမ္မ(၃၇)ပါးတို့သည် ဤဘုရားသာသနာ၌ ကျင့်ဆောင်ရမည့်တရားဖြစ်ကြောင်းကို ထင်ရှားစေရန်–

'ယခုအခါ ဘုရားသာသနာ၌ လူဖြစ်ကျိုးနပ်ကြအောင် သမထဝိပဿနာတရားများကို အားထုတ်လိုကြကုန်သောသူတို့အား မဖြစ်လျှင်မနေရ၊ ထ,မြောက်အောင် ထူထောင်အားသစ်ရာသော ဗောဓိပက္ခိယတရား(၃၇)ပါးတို့ကို'*၃ –ဟူ၍ ရေးသားထားတော်မူပြန်ပါသည်။

မြို့အုပ်ဦးဘိုးမြတို့၏ ပျဉ်းမနားသည် ဆင်ပေါသောအရပ်ဖြစ်သည်။ သစ်တောကြီးများရှိ၍ ဆင်နှင့်လုပ်ကိုင်ကြရရာ ဆင်အကြောင်း ကောင်းစွာသိသူများဖြစ်ကြလေသည်။ ဤသို့ဆင်အကြောင်းသိပြီးသူတို့ကို ဆင်ကိုဥပမာထား၍ စိတ်၏ကိလေသာအာရုံ၌ငြိတွယ်သည်ကို နှိမ်နင်းနိုင်ပုံအကြောင်းဖော်ပြရာတွင်–

(၁) လူ့ကာမဂုဏ်စုသည် ဆင်ပျော်သောတောကြီးနှင့်တူပုံ၊
(၂) သာသနာတော်သည် မြို့လွင်ပြင်နှင့်တူပုံ၊
(၃) စိတ်သည် တောဆင်ရိုင်းနှင့်တူပုံ၊
(၄) သာသနာဓမ္မတို့၌ အလွန်ယုံကြည်လှ, လိုလားလှသော သဒ္ဓါဆန္ဒတို့သည် အလွန်လိမ္မာသော အောင်းမနှင့်တူပုံ၊
(၅) သီလဝိသုဒ္ဓိသည် ဆင်ကျုံးတော်ကြီးနှင့်တူပုံ၊
(၆) ထွက်သက်ဝင်သက် အစရှိသော မိမိကိုယ်ခန္ဓာသည် ဆင်ချည်တိုင်ကြီးနှင့်တူပုံ၊

*၁ လယ်တီဆရာတော်ကြီး၏ ဗောဓိပက္ခိယဒီပနီကျမ်း။ သုဓမ္မဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၈–ခုနှစ်။ (စာမျက်နှာ–၈)။
*၂ ယင်း။ (စာမျက်နှာ–၁၆)။
*၃ ယင်း။ (စာမျက်နှာ–၁၈)။

(၇) ကာယဂတာသတိသည် ကြိုးလွန်နှင့်တူပုံ၊
(၈) သမထဝိပဿနာတို့၏ ရှေးအဖို့ ပရိကံမှုစသည် ဆင်ကိုသွန်သင်ဆုံးမမှုနှင့်တူပုံ၊
(၉) သမထ,ဝိပဿနာမှုသည် မင်းပွဲသဘင်,စစ်မြေပြင်နှင့်တူပုံ–

စသည်ဖြင့် ဥပမာပုံတို့ကိုဖော်ပြပြီးမှ စိတ်တည်းဟူသောတောဆင်ရိုင်းကို ကောင်းမှုဟူသောသဒ္ဓါဆန္ဒတို့နှင့်တွဲ၍ သာသနာတည်းဟူသောလွင်ပြင်သို့ထုတ်၊ သီလဝိသုဒ္ဓိတည်းဟူသောဆင်ကျုံးသို့သွင်း၊ ကာယာဂတာသတိဟူသောကြိုးလွန်းတပ်၊ ထွက်သက်ဝင်သက်အစရှိသောဆင်ချည်တိုင်တွင်ခိုင်စွာနှောင်ပြီး သမထဝိပဿနာတို့၏ရှေးအဖို့ဖြစ်သော ပရိကံမှုတရားစုဖြင့် ယဉ်အောင်ပြု၊ အဆိပ်အတောက်မရှိ, အလွန်ငြိမ်သက်တည်ကြည်သောအခါ သိမှု, လိမ္မာမှုအမျိုးမျိုးတို့ကို ကြိုးကျုနပ်နှော၍ ဆုံးမပြီးမှ မင်းပွဲသဘင်သို့မဟုတ် စစ်မြေပြင်ဟူသော သမထ, ဝိပဿနာအမှုသို့ ပွဲထုတ်ရပုံအကြောင်း ရေးသားထားရာ ဆင်အကြောင်းသိသူ၏စိတ်နှလုံး၌ ကွက်ကွက်ကွင်းကွင်း ပေါ်ပေါ်လွင်လွင်ရှိချေတော့သည်။*၁

ဤဗောဓိပက္ခိယဒီပနီကို ပျဉ်းမနားမြို့၌ လယ်တီဆရာတော်ကြီးသီတင်းသုံးနေတော်မူစဉ် နယုန်လမှစ၍ရေးသားတော်မူရာ ၁၂၆၆–ခုနှစ်၊ (ပထမ)ဝါဆိုလ (အေဒီ ၁၉၀၄–ခုနှစ်၊ ဇူလိုင်လ) အင်ကြင်းမြိုင်စကြံ၌သီတင်းသုံး၍ ဝါကပ်ရန်ပြင်ဆင်ချိန်တွင် အပြီးသတ်တော်မူခဲ့ပါသည်။*၂

**အင်ကြင်းမြိုင်၌ဝါဆိုကျောင်းဆောက်ရခြင်း**

လယ်တီဆရာတော်ကြီး ပျဉ်းမနားမြို့သို့ဆိုက်ရောက်ပြီးနောက် ပထမဝါဆိုလတွင် လယ်တီဆရာတော်ကြီးက မြို့အုပ်မင်းနှင့်မြို့အုပ်ကတော် အစရှိသော ဒကာ,ဒကာမတို့အား 'မိမိသည် တောရအရပ်၌သာဝါကပ်လိုသည်၊ ယခုပြာသာဒ်ကျောင်းတည်ရှိရာ တောင်ကုန်းနေရာမှာ မြို့ရွာနှင့်နီးလှ၍ ဝါကပ်ရန်မသင့်'–ဟုမိန့်ကြားသဖြင့် ဒုတိယဝါဆိုလဆန်းမှာပင် မြို့အုပ်ဦးဘိုးမြ၊ ဒေါ်စောတို့သည် ပျဉ်းမနားမြို့မှ အနောက်မြောက်ဘက်ရှိ တောတောင်တန်းအတွင်း အင်ကြင်းမြိုင်ဟုအမည်တွင်သောတောရတွင် အလျားအတောင်ခြောက်ဆယ်ရှိ စကြံလမ်းပါသောဝါဆိုကျောင်းကြီးတစ်ဆောင်ကို အလျင်အမြန်ဆောက်လုပ်ခဲ့ကြရပါသည်။*၃

**ကျူနစတ္တာလီသမဝါဆိုတော်မူခြင်း**

လယ်တီဆရာတော်ကြီးသည် ၁၂၆၆–ခုနှစ်၊ ဒုတိယဝါဆိုလအတွင်း (အေဒီ ၁၉၀၄–ခုနှစ်၊ ဇူလိုင်/ဩဂုတ်လ)တွင် (၃၉)ကြိမ်မြောက် ကျူနစတ္တာလီသမဝါကို ပျဉ်းမနားမြို့၊ အနောက်

---

*၁ လယ်တီဆရာတော်ကြီး၏ ဗောဓိပက္ခိယဒီပနီကျမ်း။ ၁၂၆၈–ခုနှစ်။ (စာမျက်နှာ–၂၅၊ ၂၆)။

*၂ ယင်း။ (စာမျက်နှာ–၁၁၄)။ ပျဉ်းမနားမြို့အုပ်ဦးဘိုးမြနှင့် ကုန်သည်ဦးဘိုးလှတို့အား ရေးသားချီးမြှင့်တော်မူသော ဗောဓိပက္ခိယဒီပနီကျမ်းလာ စာသားအချို့ကို ထို ၁၂၆၆–ခုနှစ်၊ နတ်တော်လ၌ထုတ်ဝေသည့် မန္တလေးမြို့ ဗုဒ္ဓဘာသာ သာသနာပြုအသင်းသတင်းစာတွင် 'လယ်တီဆရာတော်ဘုရားကြီးရေးသားဆုံးမတော်မူသော တရားဒေသနာတော်' ဟူသောခေါင်းစဉ်ဖြင့် ထုတ်နုတ်ဖော်ပြထားခဲ့လေသည်။ ဗုဒ္ဓဘာသာ သာသနာပြုအသင်းသတင်းစာ၊ အတွဲ–၅၊ အမှတ်–၄၉။ ၁၉၀၄–ခုနှစ်၊ ဒီဇင်ဘာလ။ (စာမျက်နှာ–၄၃၇)။

*၃ လယ်တီဆရာတော်၏ ဘာဝနာဒီပနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၂၉၁)။



ပျဉ်းမနားမြို့၊အင်းကြင်းမြိုင်တောရရှိ ဦးဘိုးမြနှင့်ဒေါ်စောကောင်းမှု ဂန္ဓကုဋိတိုက်



ဦးဘိုးမြနှင့်ဒေါ်စော၏ကျောက်စာ



ဦးဘိုးမြနှင့်ဒေါ်စော၏ကောင်းမှုဘုရားနှင့်အုတ်တိုက်



ရေတွင်း



စင်္ကြံလမ်း



ဝစ္စကုဋိ

မြောက်ဘက် တောင်ကုန်းတောတန်းအရပ်ရှိ တောရများစွာ[*၁] တို့တွင် စိမ့်စမ်းအလွန်ပေါသော အင်ကြင်းမြိုင်စကြံ့ဝါဆိုကျောင်း၌ ကပ်ဆိုတော်မူခဲ့ပါသည်။

လယ်တီဆရာတော်ကြီး ပျဉ်းမနားမြို့မြောက် အင်ကြင်းမြိုင်တောရ၌ဝါကပ်ဆိုပြီဟူသော သတင်းရလျှင် ရန်ကုန်မြို့၊ ပုဇွန်တောင် တောင်လုံးပြန်ရပ်နေ ဓာတ်ဆရာကြီးဆရာမြို့သည် ဝါတွင်းသုံးလပတ်လုံး ဉပုသ်သီတင်းစောင့်ထိန်းရန်နှင့် ဆရာတော်ကြီးအားပြုစုလုပ်ကျွေးရန် ဟူသော ရည်ရွယ်ချက်နှစ်ရပ်ဖြင့် အင်ကြင်းမြိုင်တောရသို့ရောက်ရှိလာသည်။ ပြီးလျှင် တစ်ဝါတွင်းလုံး ဆရာတော်ကြီးဟောကြားသော ဘာဝနာလေးဆယ်နှင့်စပ်သော ဓမ္မကထာ ဒေသနာတို့ကို ကောင်းစွာမှတ်သားယူပြီး ဆင်ခြင်ပွားများနေခဲ့ပါသည်။

**အင်ကြင်းမြိုင်တောရ**

အင်ကြင်းမြိုင်တောကျောင်းနေရာသည် ပျဉ်းမနားမြို့နှင့် ကုလလေးတာ ပြန်ငါးရာမက ကွာလှမ်း၍ တောရအင်္ဂါနှင့်ပြည့်စုံသောအရပ်ဖြစ်ပါသည်။ အရှေ့ဘက်တွင် ပတ္တပိုဏ်တောရ၊ တောင်ဘက်တွင် မန္တလာကျောင်းဟောင်းနေရာ[*၂] နှင့် မြစေတီကန်[*၃]တို့တည်ရှိပြီး၊ အရှေ့ဘက်၌ လှိုကြီးတစ်ခုရှိလေသည်။ ရံခါလူသူများပြားလာသော် လယ်တီဆရာတော်ကြီးသည် ထိုလှိုအတွင်းဆင်း၍ သီတင်းသုံးနေတော်မူလေ့ရှိရာ လယ်တီလှို–ဟုပင်ခေါ်ဆိုခဲ့ကြသည်။ ဤတောရတွင် စမ်းရေစိမ့်ရေစတသွင်သွင်စီးဆင်းနေပြီး အသီးအပွင့်တဝေ့တွေတို့ဖြင့် သစ်ပင်ဝါးပင်အပေါင်းတို့ခြံရံကာ ပန်းရနံ့ထုံသင်းလျက် မြောက်ဘက်က တောအုပ်တောင်ဝှမ်း ဝန်းကာရံထားသောကြောင့် နေကောင်းပျော်ဖွယ်တင့်တယ်ကြည်အေးသောတောရနေရာဖြစ်ပါသည်။[*၄]

ဤအင်ကြင်းမြိုင်တောရအတွင်း လယ်တီဆရာတော်ကြီး ဝါကပ်ဆိုရန် အတောင်(၆၀)ပါ စကြံ့ကျောင်းကိုသာမက ဆရာတော်ကြီးအသုံးပြုရန် ရေကန်,ရေတွင်း,ရေချိုးအိမ်နှင့် အတောင် ၁၁၆–တောင်ရှည်သော စကြံ့အုတ်လမ်းကြီးပါ ပြုလုပ်ခဲ့ကြသည်။ အင်ကြင်းမြိုင်တွင် ကျောင်း

---

*၁ ဤတောင်ကုန်းတောတန်းတွင် တောရစခန်းများစွာရှိရာတွင် လယ်တီဆရာတော်ကြီးတို့လက်ထက်မတိုင်မီနှင့် တိုင်ပြီးသည့်နောက် ထင်ရှားခဲ့သောတောရများမှာ– (၁) ဦးဗုဒ္ဓေါတောရ(ဤတောရကို ရှေးက မဟာဝုန်တောရဟုခေါ်သည်။ နောက်မှ ဦးဗုဒ္ဓေါတောရ၊ ဉပုသ်တော်တောရ–စသည်ဖြင့်ခေါ်သည်)၊ (၂) ညောင်ရမ်းတောရ၊ (၃) ပုံသကူတောရ၊ (၄) အောင်သိဒ္ဓိတောရ၊ (၅) ပုပ္ပါးတောရ၊ (၆) အိုးဘိုဂူတောရ၊ (၇) ဝေဇယန္တာတောရ၊ (၈) မနုင်းဆိတောရ၊ (၉) သပြေတောင်းတောရ၊ (၁၀) အင်ကြင်းတောင်တောရ၊ (၁၁) ပတ္တပိုဏ်တောရ၊ (၁၂) နန္ဒဝန်တောရ၊ (၁၃) [illegible]ရားကြီးတောရ၊ (၁၄) စူဠာမဏိတောရ၊ (၁၅) မေတ္တာအောင်လံတောရ၊ (၁၆) ဓမ္မဝိဟာရတောရ၊ (၁၇) [illegible]မ်းမြိုင်တောရ၊ (၁၈) အထက်ရွှေဒေါင်းတောရ၊ (၁၉) အောက်ရွှေဒေါင်းတောရ၊ (၂၀) စမ်းကျောင်းတောရ၊ (၂၁) အရိယဝံသတောရ၊ (၂၂) စိတ္တသုခတောရ၊ (၂၃) အောင်သုခတောရ၊ (၂၄) စမ်းကျတောရ(စမ်းကြားတောရ–ဟုလည်းခေါ်သည်)၊ (၂၅) ဒိဋ္ဌဓမ္မသုခတောရ၊ (၂၆) အင်ကြင်းမြိုင်တောရ(အင်ကြင်းတောင်–ဟုလည်းခေါ်သည်)၊ (၂၇) မစိုးရိမ်တောရ–စသည်တို့ဖြစ်သည်။

*၂ ရှေးက မန္တလေးမြို့မှ ဓမ္မကထိကဆရာတော်ကြီးတစ်ပါး သီတင်းသုံးဖူးသည်။ ရှေးကျောင်းဟောင်းကြီးများရှိသည်။

*၃ ပျဉ်းမနားမြို့ ရွာကောက်ရပ် ဦးစံဒွန်း၊ ဒေါ်ငယ် ကောင်းမှုဖြစ်သည်။

*၄ လယ်တီပဏ္ဍိတ၏ သဒ္ဓမ္မဥ္စရီ။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၉၆–ခုနှစ်။ (စာမျက်နှာ–၄၄၄)။



ပျဉ်းမနားမြို့၊အင်ကြင်းမြိုင်တောရရှိ လယ်တီဆရာတော်ကြီးသီတင်းသုံးရာအုတ်တိုက်







အုတ်တိုက်အတွင်း နံရံကပ်စေတီနှင့်အခန်းဆောင်များ

ဒကာ ဦးဂေါ်ယာ၊ သမီးမြေးတို့ကောင်းမှု အုတ်တိုက်တစ်ခုရှိပြီး ယင်းအုတ်တိုက်၏မြောက်ဘက်မျက်နှာစာ၌ 'သံဃိက'ဟူသောစာလုံးကို အင်္ဂတေဖောင်းကြွပြုလုပ်ထားလေသည်။ အုတ်တိုက်အတွင်း နံရံပေါ်တွင် စေတီပုံအင်္ဂတေဖြင့်ပြုလုပ်ထားပြီး 'ရွှေစေတီ'ဟု ကမ္ပည်းထိုးထားသည်။ ထိုအုတ်တိုက်၏တောင်ဘက်တွင် သိမ်ရှိခဲ့သည်။

လယ်တီဆရာတော်ကြီးသည် ရခဲ၌ ဥပုသ်တော်တောရ၌ စာကြည့်ရန်ကြွသွားလေ့ရှိရာ ထိုတောရ၌ အုတ်တိုက်တစ်ဆောင်ဆောက်လုပ်ထားပြီး လယ်တီဆရာတော်ကြီးစာကြည့်သော အုတ်တိုက်ဟူ၍လည်း အမှတ်အသားရှိကြသည်။ ရခဲ၌ ဆရာတော်ကြီးသည် အထက်ရွှေဥဒေါင်းတောရ၌ စေတီတစ်ဆူတည်ထားရာ ထိုနေရာဌာနသို့လည်း ခေတ္တသီတင်းသုံးနေတော်မူလေ့ရှိပါသည်။ ပတ္တပိုဏ်တောရတွင် ရှေးကဆောက်လုပ်ခဲ့သောကျောင်းဟောင်းကြီးနှင့် ရေတွင်းရေကန်များရှိရာ ထိုတောရသို့လည်း လယ်တီဆရာတော်ကြီးကြွတော်မူလေ့ရှိပါသည်။*၁

**သောမနဿုပေက္ခာဒီပနီ**

ရွှေတောင်မြို့နေ တိုက်သူကြီးမောင်အောင်လှ၊ ဆရာမောင်သာမောင်၊ မောင်စံမြ၊ မောင်မှတ်ကြီး၊ ဆရာညို၊ ကိုနု-အစရှိသောဒကာတစ်စုတို့သည် အဘိဓမ္မာတရားဒေသနာ၌ စိတ်ဝင်တစားဖတ်ရှုကြကာ အထူးသဖြင့် လယ်တီဆရာတော်ကြီး၏ပရမတ္ထဒီပနီကိုလည်း လေ့လာခဲ့ကြသည်။ လယ်တီဆရာတော်ကြီး၏ ပရမတ္ထဒီပနီကျမ်းလာအယူအဆများကို နှစ်သက်သဘောကျသူများဖြစ်ပြီး၊ ဥပေက္ခာကုသိုလ်နှင့် သောမနဿကုသိုလ် ဤကုသိုလ်နှစ်ရပ်တွင် မည်သည့်ကုသိုလ်စေတနာကသာလွန်ပုံ၊ အထူးဝိသေသဖလဝဖြစ်ပုံတို့ ရှင်းလင်းသိလိုပါကြောင်း လယ်တီဆရာတော် ကြီးထံတော်သို့ စာဖြင့်မေးလျှောက်ခဲ့ရာ ထိုစာလွှာသည် လယ်တီဆရာတော်ကြီး အင်ကြင်းမြိုင် တောရ၌ဝါကပ်ဆိုမည့် ဒုတိယဝါဆိုလဆုတ် ၁၅-ရက် (အေဒီ-၁၀၊ ဩဂုတ်လ၊ ၁၉၀၄-ခုနှစ်) ဥပုသ်နေ့၌ လယ်တီဆရာတော်ကြီးလက်တော်သို့ ဆိုက်ရောက်ခဲ့လေသည်။

ယင်းတို့၏စာမှာပင် အင်္ဂုတ္တိုရ်ပါဠိတော်နှင့်ယင်းအဋ္ဌကထာ၊ သမ္မောဟဝိနောဒနီအဋ္ဌကထာ၊ ဓမ္မပဒအဋ္ဌကထာ၊ စရိယာပိဋကအဋ္ဌကထာ၊ ပါရာဇိကဏ်အဋ္ဌကထာ၊ သုတ်မဟာဝါအဋ္ဌကထာ၊ ပရမတ္ထဒီပနီပါဌ်-စသည့် ပါဠိကျမ်းဂန်စာပေတို့ကို ကြည့်ရှုကြပြီးလျှင် ဆိုင်ရာအကိုးအကား ပါဠိတို့ဖြင့်တင်ပြထားလေရာ၊ လယ်တီဆရာတော်ကြီးက- 'ငင်းစာလွှာတွင်ပါရှိသမျှ အစ, အလယ်,အဆုံး အလုံးစုံကိုကြည့်ရှုရာ ရှေးပညာရှိ ကဝိလက်သုံး နည်းထုံးတန္တိ စံမှီစေ့စပ် စကားတတ်တရားတတ် နှစ်ရပ်စွယ်စုံ လောက်လုံအင်္ဂါ အညင်သာသာဖြင့် ပညာရှိပြီကြပါ ပေကုန်၏'ဟု ထိုပုဂ္ဂိုလ်တို့၏အရည်အသွေးကို ချီးကျူးတော်မူခဲ့ပါသည်။

လယ်တီဆရာတော်ကြီးက သောမနဿနှင့်ဥပေက္ခာ- တရားနှစ်ပါးကို သုတ္တန်နည်း, အဘိဓမ္မာနည်း နည်းနှစ်ပါးဖြင့် ရှင်းလင်းရေးသားတော်မူရာ ရက်သတ္တတစ်ပတ်အတွင်း ထိုနှစ်

*၁ မြို့မစမ်းမြိုင်တိုက်သစ် ဦးသုမန၊ ပုံသကူတောရ ဦးဇဝန၊ ဦးတိလောကတို့ (၁၈၊ ၁၀၊ ၁၉၉၇)နေ့ မိန့်ကြားတော်မူချက်များဖြစ်သည်။




ပျဉ်းမနားမြို့ ရွှေဥဒေါင်းတောရအထက်ကျောင်း



ပျဉ်းမနားမြို့
အင်ကြင်းမြိုင်တောရအတွင်းရှိ
စင်္ကြံလမ်း



အင်ကြင်းမြိုင်တောရအတွင်းရှိရေကန်



ဦးဗုဒ္ဓေါတောရရှိအုတ်တိုက်

ဝါခေါင်လဆန်း ၈-ရက် (အေဒီ-၁၈၊ ဩဂုတ်လ၊ ၁၉၀၄-ခုနှစ်)တွင် ထိုသောမနသုပေက္ခာဒီပနီအမည်ရှိသောကျမ်းစာ ရေးသားပြီးဆုံးခဲ့ပါသည်။*၁

## သံခိပ်အသင်းအစ ပျဉ်းမနားက

လယ်တီဆရာတော်ကြီးသည် ပျဉ်းမနားမြို့ အင်ကြင်းမြိုင်တောရ၌ ဝါကပ်သီတင်းသုံးနေတော်မူစဉ် မြို့အုပ်ဦးဘိုးမြ၊ သမာဓိမြို့ဝန်ဆရာကြီးဦးထွန်းလှိုင်၊ ဦးအုံး၊ ဦးဘထုံး၊ ဦးရွှေကြူ၊ ဦးမင်းဒင်စသော မြို့မျက်နှာဖုံးလူကြီးလူကောင်းများ လာရောက်ဆည်းကပ်ကြရာ ဆရာတော်ကြီးက မြို့ရွာအတွင်းရှိ လူငယ်လူရွယ်များ ဗုဒ္ဓဘာသာသာသနာနှင့်မဝေးကွာစေရန် အသင်းအဖွဲ့များ ဖွဲ့စည်း၍ သာသနာကြီးပွားတိုးတက်ရေးကိုဆောင်ရွက်ကြရန် မိန့်ကြားတော်မူပါသည်။ ဆရာတော်ကြီး၏ဩဝါဒအတိုင်း သာသနဟိတအသင်းကို ဖွဲ့စည်းတည်ထောင်ခဲ့ကြပါသည်။ ထိုအသင်းတွင် အမျိုးသမီးများသီးသန့်အတွက် ကုမ္မာရီအသင်းနှင့် သံခိပ်အသင်းဟူ၍လည်း အသင်းခွဲနှစ်ရပ် သီးခြားဖွဲ့စည်းခဲ့သည်။

လယ်တီဆရာတော်ကြီးသည် ပရမတ္ထသံခိပ်ကို မုံရွာမြို့ လယ်တီတိုက်တွင် သက္ကရာဇ်-၁၂၆၅(အေဒီ-၁၉၀၃)ခုနှစ်ကရေးဖွဲ့ခဲ့ပြီး မိမိတိုက်တာနှင့်စပ်သောသံဃာများ၊ လူရွယ်လူကြီးတို့ကို ကျက်မှတ်ကြရန် တိုက်တွန်းတော်မူခဲ့သော်လည်း အသင်းအဖွဲ့တစ်ခုအနေဖြင့် ဖွဲ့စည်းပေးတော်မူခြင်းမရှိခဲ့ပေ။ ယခု ပျဉ်းမနားမြို့သို့ရောက်မှ ပရမတ္ထသံခိပ်အသင်းကို တရားဝင်ဖွဲ့စည်းပေးတော်မူခဲ့၍ 'သံခိပ်အသင်းအစ ပျဉ်းမနားက'ဟု စကားတစ်ရပ်တွင်ခဲ့သည်။*၂ ထိုသံခိပ်အသင်းသူအသင်းသားများ စုပေါင်း၍ ဆရာတော်ကြီး၏ပရမတ္ထသံခိပ်ကိုကျက်ကြသည်။ ပြီးလျှင် ဝါတွင်းကာလ၌ ဆရာတော်ကြီးဝါကပ်ဆိုရာ အင်ကြင်းမြိုင်တောရသို့သွားရောက်ကြပြီးလျှင် သံခိပ်ပြန်ဆိုပြကြလေသည်။

သံခိပ်ကျက်၍ အာဂုံနှုတ်တက်ဆောင်မိလျှင် လယ်တီပဏ္ဍိတကိုယ်တော်၊ လယ်တီကိတ္တိတို့က သင်္ဂြိုဟ်သရုပ်များရှင်းလင်းဟောပြောပေးကြသည်။ မိန်းကလေးများကိုမူ ရှေ့က ခန်းဆီးလိုက်ကြီးများကာ၍ ဒကာ,ဒကာမကြီးများခြံရံကာ ကိုယ်တော်လေးများက ရှင်းလင်းဟောပြောပေးတော်မူကြပါသည်။ သံခိပ်လင်္ကာများနှုတ်တက်ရ၍ သဘောအဓိပ္ပာယ်ကိုပါပိုင်နိုင်လျှင် ဆရာတော်ကြီးကိုယ်တော်တိုင်ကြီးမှူး၍ ပရမတ္ထသံခိပ်စာမေးပွဲကျင်းပပြုလုပ်ပေးရာ သင်္ဂြိုဟ် ၃-ပိုင်းဖြေဆိုနိုင်သူကို မူးစေ့တစ်စေ့၊ သင်္ဂြိုဟ် ၆-ပိုင်းဖြေဆိုနိုင်သူကိုမတ်စေ့တစ်စေ့၊ သင်္ဂြိုဟ် ၉-ပိုင်းဖြေဆိုနိုင်သူကို ငါးမူးစေ့တစ်စေ့-စသည်ဖြင့် ဆုအဖြစ်ပေးခဲ့ပါသည်။ ထိုစဉ်က သံခိပ်ကို ကျက်မှတ်ကြရာတွင် လူငယ်အမျိုးသား, အမျိုးသမီးများသာမက လူကြီးပိုင်းကလည်းဝင်ရောက်၍

---

*၁ လယ်တီဆရာတော်ကြီး၏ သောမနသုပေက္ခာဒီပနီ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၁-ခုနှစ်။ (စာမျက်နှာ-၈၂)။

*၂ အချို့က တောင်သာမြို့တွင် စတင်ဖွဲ့စည်းသည်ဟူ၍လည်း အမှတ်အသားပြုကြသည်။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ-၁၆၆)။ ဒေါ်စန်းမြမြ၏ ပထမလယ်တီဆရာတော်ကြီး၏စွမ်းဆောင်ချက်သမိုင်း။ ၁၉၇၄-ခုနှစ်။ (စာမျက်နှာ-၃၃)။

ကျက်မှတ်ကြပါသည်။[*၁] ဤသို့ လူကြီးပိုင်းကလည်း သံခိပ်ဝင်ရောက်ကျက်မှတ်ကြရာ၌ ပျဉ်းမနားမြို့၏မျက်နှာဖုံး ပျဉ်းမနားမြို့၌အချမ်းသာဆုံးဟုဆိုရမည့် သူဌေးဦးလန်း၊ ဒေါ်မမလေးတို့လည်း အပါအဝင်ဖြစ်သည်။

**သံဃာအဓိကရုဏ်း**

လယ်တီဆရာတော်ကြီး ပျဉ်းမနားမြို့၌ဝါကပ်နေစဉ်အတွင်း သစ်အရောင်းအဝယ်မှုတစ်ခုတွင် သံဃာအချို့ပါဝင်နေရာ ထိုပါဝင်နေသောသံဃာတို့ကိုအဒိန္နဒါန်အမှုကြီးအဖြစ် စွပ်စွဲခံနေကြရ၏။ ထိုအမှုကို ပျဉ်းမနားမြို့ဂိုဏ်းထောက်,ဂိုဏ်းအုပ်တို့ကဖြေရှင်းသော်လည်း တစ်ဖက်ကလက်မခံ၊ အစိုးရမင်းတို့၏ရုံးတော်မှဆုံးဖြတ်သော်လည်း တစ်ဖက်ကမနာယူ- ဤသို့ဖြင့် အပြီးမသတ်နိုင်ရှိနေခဲ့ရာ၊ ဒကာရင်းဖြစ်သူ မြို့အုပ်ဦးဘိုးမြ၏တောင်းပန်ချက်အရ လယ်တီဆရာတော်ကြီးက ထိုအမှု၌ဝင်ရောက်၍ အနည်းငယ်မိန့်ခွန်းပေးရုံဖြင့် နှစ်ဦးနှစ်ဖက်ပြေငြိမ်းကာ အဓိကရုဏ်းစဲခဲ့ရလေသည်။[*၂]

**ဘာဝနာဒီပနီ**

လယ်တီဆရာတော်ကြီး၏ခြေတော်ရင်းတွင် တစ်ဝါတွင်းလုံး ဥပုသ်သီတင်းဆောက်တည်၍နေခဲ့သော ဓာတ်ဆရာကြီးဦးမြို့သည် ဝါတွင်းကာလတုန်းက ဆရာတော်ကြီးရှင်းလင်းဟောကြားသော ဘာဝနာလေးဆယ်တို့၏အနက်အဓိပ္ပာယ်တို့သည် ရှင်လူအပေါင်းတို့ နာယူမှတ်သားဖွယ်ကောင်းလှသောကြောင့် ဆရာတော်ကြီးအားရေးသားချီးမြှင့်ပေးပါရန် တောင်းပန်လျှောက်ထားခဲ့ပါသည်။ ထိုအခါ လယ်တီဆရာတော်ကြီးသည် ဆရာမြို့၏လျှောက်ထားပန်ကြားချက်အရ ဘာဝနာဒီပနီအမည်ရှိသောကျမ်းစာကိုရေးသားတော်မူရာ သက္ကရာဇ် ၁၂၆၆-ခုနှစ်၊ သီတင်းကျွတ်လဆန်း(အေဒီ-၁၉၀၄၊ အောက်တိုဘာလ)တွင် ပြီးစီးတော်မူခဲ့ပါသည်။[*၃]

**မလှိုင်မြို့သို့**

လယ်တီဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၆၆-ခုနှစ်၊ သီတင်းကျွတ်လ (အေဒီ ၁၉၀၄-ခုနှစ်၊ အောက်တိုဘာ/နိုဝင်ဘာလ)တွင် မလှိုင်မြို့[*၄]က အမိန့်တော်ရရှေ့နေ ဦးမှင်နှင့် ညီမင်းတိုင်ပင်အမတ် ဦးလူဆင် ညီအစ်ကိုတို့ပင့်လျှောက်လာသည့်အတွက် ပျဉ်းမနားမြို့မှ မလှိုင်မြို့သို့ကြွတော်မူရပါသည်။ မလှိုင်မြို့သို့ရောက်သော် အမိန့်တော်ရရှေ့နေဦးမှင်၏မိခင် ဒေါ်လေးကြီးတိုက်တွင် ခေတ္တတည်းခိုပါသည်။[*၅] ထို့နောက် မလှိုင်မြို့၌ဖြစ်ပွားနေသော လူကြီး,လူငယ်

---

[*၁] ပျဉ်းမနားမြို့ ရတနာကုန်သည်ကြီးဦးသွင် (၁၈၊ ၁၀၊ ၁၉၉၇)နေ့ ပြောပြချက်ဖြစ်သည်။

[*၂] လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ-၅၀)။

[*၃] လယ်တီဆရာတော်ကြီး၏ ဘာဝနာဒီပနီကျမ်း။ ၁၉၅၄-ခုနှစ်။ (စာမျက်နှာ-၁၊ ၂၉၁)။

[*၄] မန္တလေးတိုင်း၊ မိတ္ထီလာခရိုင်၊ မလှိုင်မြို့နယ်တွင်ဟည်ရှိသည်။

[*၅] မလှိုင်မြို့၊ တံခွန်တိုင်ကျောင်း အုတ်ဖိုကန်ဆရာတော်ကြီးဦးစန္ဒိမာ(၂၁၊ ၁၀၊ ၁၉၉၇)နေ့ မိန့်ကြားတော်မူခြင်းဖြစ်ပါသည်။

နှစ်ပက္ခနှစ်သင်း ကွဲပြားနေသည်ကို ငြိမ်းစဲအောင်ဖြေရှင်းပေးတော်မူပါသည်။ ထို့ပြင် သံဃာတော်များနှစ်ဂိုဏ်းကွဲပြားနေသည်ကိုလည်း စေ့စပ်ညှိနှိုင်း၍ပေးတော်မူပါသည်။ ထိုစဉ်က မလှိုင်မြို့တွင် လယ်တီဆရာတော်ဟောကြားတော်မူသောတရားတော်မှာ–

သုခေါ ဗုဒ္ဓါနမုပ္ပါဒေါ၊ သုခါ သဒ္ဓမ္မဒေသနာ။

သုခါ သံဃဿ သာမဂ္ဂီ၊ သမဂ္ဂါနံ တပေါ သုခေါ–

ဟူသော ဓမ္မပဒပါဠိတော် ဗုဒ္ဓဝဂ္ဂ၊ သမ္ဗဟုလဘိက္ခုဝတ္ထုလာဂါထာ (ဓမ္မ၊ ၄၂။ ဓမ္မ၊ ဋ္ဌ၊ ၂။ ၁၆၂။)ကိုအခြေခံသည့် သုခပဒေသာတရားတော်ကြီးပင်ဖြစ်ပါသည်။*၁

## တောင်သာမြို့သို့ကြွတော်မူခြင်း

လယ်တီဆရာတော်ကြီး ပျဉ်းမနားမြို့ အင်ကြင်းမြိုင်တောရ၌ ဝါကပ်ဆိုနေစဉ်အခါက မလှိုင်မြို့မှပင့်စာနှင့်အတူ တောင်သာမြို့မှဆေးဆရာကြီးဦးကဲ၊ အမိန့်တော်ရဦးဖုန်းကျော်နှင့် မြို့သူကြီးဦးသာလှစသူတို့၏ ပင့်လျှောက်စာရောက်ရှိလာ၏။ ထိုပင့်လျှောက်စာတွင်– လယ်တီဆရာတော်ကြီး၏ဒီပနီကျမ်းများကိုလေ့လာကြည့်ရှုကြရပြီးနောက် ခန္ဓာဝန်,သံသရာဝန်၌ အလွန်ကြောက်ရွံ့လာကြရကား သံသရာဝဋ်မှကျွတ်လွတ်လိုကြပါ၍ ဆရာတော်ကြီးထံတော်မှ တရားတော်တို့ကိုနာယူလိုကြပါ၍ တောင်သာမြို့သို့ကြွတော်မူပါရန် စသည်ရေးသားထားကြ၏။

တောင်သာမြို့မှပင့်လျှောက်စာကိုဖတ်ရှုတော်မူပြီး ဆရာတော်ကြီးက မိမိအနီး၌ဝတ်ပြုနေသူ ဓာတ်ဆရာကြီးဦးမြို့ကို– 'ဟေ့–ငမြို့ရဲ့၊ ဒီပင့်စာက အနှစ်မပါ အကာချည်းပဲကိုးကွဲ့'ဟု မိန့်တော်မူ၏။ ဆရာတော်ကြီးဆိုလိုသည်မှာ စာတွင်တရားနာယူလိုရုံမျှပါပြီး တရားအားထုတ်လိုသူ မည်ရွေ့မည်မျှစသည်မပါခြင်းကြောင့်ဖြစ်သည်။ ဤအကြောင်းကို တောင်သာမြို့မှ ဒကာများသိသော် ဆရာတော်ကြီးဆန္ဒအတိုင်း တရားအားထုတ်ကြမည့်ပုဂ္ဂိုလ်တို့စာရင်းကိုပါ ထပ်မံ၍ပေးပို့ခဲ့ကြပါသည်။

လယ်တီဆရာတော်ကြီးသည် မလှိုင်မြို့၌တရားပွဲများပြီး၍ မလှိုင်မြို့မှထွက်ခွာရန်ပြင်သည့်အခါ တောင်သာမြို့မှဒကာကြီးများက မလှိုင်မြို့အထိလာရောက်၍ကြိုဆိုကာ တောင်သာမြို့ အရောက်ပင့်ဆောင်ကြသည်။

တောင်သာမြို့သို့ လယ်တီဆရာတော်ကြီးရောက်ရှိတော်မူသောအခါ ရေလည်ကျောင်း၌ ခေတ္တသီတင်းသုံးတော်မူပါသည်။ ရေလည်ကျောင်း ဒုတိယဆရာတော်ဦးရေဝတမှာ လယ်တီဆရာတော်ကြီးနှင့် စာသင်ဖက်ရင်းနှီးသောမိတ်ဆွေများဖြစ်သည်။*၂ ထိုကျောင်း၌ခေတ္တသီတင်းသုံးနိုက် အမိန့်တော်ရဦးဖုန်းကျော်အား–

'ဟေ့–မောင်ဖုန်းကျော်၊ တို့ရောက်လာတဲ့အခါ ရက်တိုတိုနှင့်နေဖို့ မတော်ဘူး၊ စစ်တိုက်တဲ့စစ်သားများလိုပဲကွဲ့၊ စစ်တိုက်ပြီးလျှင် ရုံး,ဂတ်,လမ်း–စသည်တို့

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၅၀)။

*၂ တောင်သာမြို့၊ ရေလည်ကျောင်းဆရာတော် ဦးနန္ဒဝံသ၏ (၂၁၊ ၁၀၊ ၁၉၉၇) နေ့ မိန့်တော်မူချက်ဖြစ်သည်။



တောင်သာမြို့ရှုခင်း





လယ်တီဆရာတော်ကြီးသီတင်းသုံးရန်ဆောက်လှူခဲ့သော သာသနဓေတိကာရာမတိုက်ကျောင်းကြီး



ကျောင်းဒါယကာကြီး
ဦးဘုန်းကျော်

စိုက်ထူတည်ထောင်ဖောက်လုပ်ရသလို ရက်လရှည်စွာသာသနာပြုရမှ တော်ကာကျမည်'-ဟု မိန့်တော်မူပါသည်။

အမိန့်တော်ရဦးဖုန်းကျော်ကလည်း မိမိတို့တောင်သာမြို့တွင် ဆရာတော်ကြီးကြာရှည်စွာနေ၍ သီတင်းသုံးတော်မူမည့်အကြောင်းကြားသိလျှင် တိုက်ကျောင်းကြီးတစ်ဆောင်ဆောက်ရန် အစီအစဉ်ပြုလုပ်ခဲ့သည်။

တောင်သာမြို့၌ တရားပွဲအခမ်းအနားစတင်ရန်အချိန်ကျလျှင် ဆရာတော်ကြီးသည် ခမ်းခမ်းနားနားပြင်ဆင်၍ထားသော တရားဟောမဏ္ဍပ်ကြီးသို့ကြွရောက်ကာ ဓမ္မသဘင်ပွဲကြီးကို ဆင်ယင်ကျင်းပတော်မူခဲ့ပါသည်။ ထို့နောက် တောင်သာမြို့တွင် သံခိပ်အသင်း ဖွဲ့စည်းတည်ထောင်ပေးတော်မူပါသည်။ အမိန့်တော်ရဦးဖုန်းကျော်အား-

'မောင်ဖုန်းကျော်က ရှေ့နေဆိုတော့ ကင်းဝန်မင်းကြီးရေးတဲ့ အဓုသံခိပ်ဓမ္မသတ်လင်္ကာကျမ်းကိုကြည့်ဖူးမှာပေါ့'ဟု မေးတော်မူပါသည်။ ဦးဖုန်းကျော်ကလည်း-

'မှန်ပါဘုရား၊ ငယ်စဉ်ကပင် သည်အဓုသံခိပ်ကျမ်းကိုလေ့လာတဲ့အခါ ဓမ္မသတ်ခန်း (၁၆)ခန်းအနက် (၄)ခန်းကို နှုတ်တက်ကျက်မှတ်ရဖူးပါသည်ဘုရား'ဟု လျှောက်ထားခဲ့ပါသည်။

ဆရာတော်ကြီးက-

'အိမ်း...ကောင်းလေစွ၊ ကင်းဝန်မင်းကြီးဟာ ဓမ္မသတ်ကျမ်းပေါင်း(၁၆)ခန်းတို့ကို အကျဉ်းချုံးပြီး အဓုသံခိပ်ဓမ္မသတ်လင်္ကာကျမ်းရေးခဲ့သလိုပဲ၊ ငါတို့လဲ အဘိဓမ္မာ(၇)ကျမ်းတို့ကို အကျဉ်းချုံးပြီး ပရမတ္ထသံခိပ်ကျမ်းကိုရေးပြီးဖြစ်တယ်ကွဲ့။ သည်သံခိပ်ကျမ်းကို သင်အံကျက်မှတ်လျှင် အဘိဓမ္မာ (၇)ကျမ်း ငုံမိတယ်လို့ဆိုရမယ်။ မင်းတို့မြို့ရွာမှာ ပရမတ္ထသံခိပ်အသင်းဖွဲ့စည်းပြီး အမျိုးသား,အမျိုးသမီးတွေကို သင်ကြားပေးစေလိုတယ်'-ဟု မိန့်တော်မူပါသည်။

သို့နှင့် အမိန့်တော်ရဦးဖုန်းကျော်က ဦးဆောင်ကာ တောင်သာမြို့အဘိဓမ္မာသံခိပ်အသင်းကိုဖွဲ့စည်းလျက် သံခိပ်ကို လူကြီးလူငယ်မရွေးစုပေါင်း၍ကျက်မှတ်ကြရသည်။ ဆရာတော်ကြီးနောက်တော်ကပါလာသော လယ်တီပဏ္ဍိတကိုယ်တော်တို့က ရှင်းလင်းသင်ကြားပေးကြရပါသည်။*၁

## ကမ္မဋ္ဌာန်းကျမ်းကြီး

မုံရွာမြို့တွင် လယ်တီဆရာတော်ကြီး၏ပရမတ္ထသံခိပ်လင်္ကာတို့ကို လူကြီးလူငယ်တို့ နှုတ်တက်အာဂုံရအောင်ကျက်မှတ်ကြပြီး၊ လယ်တီတိုက်တွင်းရှိရဟန်းတော်တို့က သင်္ဂြိုဟ်သရုပ် သဘော, သကန်တို့ကို ရှင်းလင်းဟောပြောပေးကြပါသည်။ ထိုသို့ရှင်းလင်းပေးသည့်ပုဂ္ဂိုလ်တို့တွင် ဆရာသဲကြီးလည်းပါဝင်ဖြစ်သည်။ ဆရာသဲကြီးသည် သင်္ဂြိုဟ်(၉)ပိုင်းတွင် အခြားအပိုင်းများရှင်းလင်းရာ၌ အဆင်ပြေခဲ့သော်လည်း နောက်ဆုံးကမ္မဋ္ဌာန်းပိုင်းတွင် အဆင်မပြေဖြစ်ရသည်။ မပြေသည့်အကြောင်းမှာ လယ်တီဆရာတော်ကြီး၏ပရမတ္ထသံခိပ်လာ ကမ္မဋ္ဌာန်းပိုင်းသည် ဆရာတော်ကြီးက

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ-၁၆၅)။

သမထဝိပဿနာကျင့်စဉ်တို့ကိုပါ ထည့်သွင်းစပ်ဆိုထားသည့်အတွက်ကြောင့်ဖြစ်သည်။ သို့ဖြစ်၍ အဘိဓမ္မာဆရာသဲကြီးက အောက်ဖော်ပြပါလျှောက်ထားလွှာတစ်စောင်ကို ပျဉ်းမနားမြို့၌ဝါကပ်ဆို နေသော ဆရာတော်ကြီးထံတော်သို့ပေးပို့ခဲ့ပါသည်။ ယင်းစာမှာ–

'တပည့်တော် ဒကာသဲ ခြေတော်ဦးခိုက်လျှောက်ထားပါသည်၊ သီလမြေထု မေရုသမာဓိနှင့် ဝရဇိန်ပညာ ဂုဏ်တေဇာကြီးမားမြင့်မြတ်တော်မူလှသော ကျေးဇူး တော်ရှင် မဟာထေရ်မြတ်ကြီးဘုရား–။

လျှောက်ထားရန်မှာ– ကျေးဇူးတော်ရှင်မဟာထေရ်မြတ်ကြီး စီရင်တော်မူ အပ်သော ပရမတ္ထသံခိပ်ကျမ်းကို သင်အံကြိုးကုတ် အားထုတ်လျက်ရှိကြပါသော ဥပါသကာယောက်ျား ၂–ကျိပ်ကျော်၊ ဥပါသိကာမ ၃–ကျိပ်တို့သည် ၃–လမျှဖြင့် အဘိဓမ္မာအလင်းနယ်သို့ ချင်းနင်းထွင်းဖောက် ဉာဏ်အမြင်ဆိုက်ရောက်လျက် ရှိကြရပါသည်။ အထူးလျှောက်ရန်မှာ– ပရမတ္ထသံခိပ်ကျမ်း၏ နောက်ဆုံးဖြစ်သော ကမ္မဋ္ဌာန်းပိုင်းသည် သရုပ်,သဘော, သကန်များ လွန်စွာကျဉ်းလွန်းနေပါ၍ ဉာဏ် အယူအဆ မနိုင်နင်းအောင်ဖြစ်နေပါသည်။ သို့ပါ၍ ပရမတ္ထဒီပနီဋီကာကြီးတွင် လာရှိသော သရုပ်, သဘော, သကန် အဓိပ္ပာယ်တို့ကို အကျယ်အားဖြင့် ရေးသား ချီးမြှင့်တော်မူပါရန် လျှောက်ပါသည်ဘုရား။

ဒကာသဲ

အဘိဓမ္မာဆရာကြီး၊ မုံရွာမြို့

၁၂၆၆–ခုနှစ်၊ ဝါဆိုလဆန်း ၁၅–ရက်နေ့[*၁]

လယ်တီဆရာတော်ကြီးသည် တပည့်ဆရာသဲလျှောက်ထားသည့်အတိုင်း ကမ္မဋ္ဌာန်းပိုင်း ဆိုင်ရာလုပ်ငန်းစဉ် ဓမ္မစည်းမျဉ်းတို့ကို ကွက်ကွက်ကွင်းကွင်းပေါ်လွင်စေရန် အခန်းပေါင်း(၁၇)ခန်း ခွဲ၍ အလွန်ကျယ်ဝန်းပြည့်စုံစွာရေးသားတော်မူပါသည်။ ဆိုင်ရာအားထုတ်ရမည့်နည်းလမ်းတို့ကို ပြသရာတွင် 'ဥပမာ–စာဂါနုဿတိကိုပွားများလိုသောယောဂီပုဂ္ဂိုလ်သည်'ဟု အစချီပြီး ရှင်းလင်း လွယ်ကူ၍ သိနားလည်စေရန် တိတိတုတ်တုတ်ရေးသားတော်မူပါသည်။ အလွန်ချောမွေ့အောင် ရေးထား၍ ဆိုင်ရာလုပ်ငန်းစဉ်တို့မှာ လက်တွေ့အားထုတ်ကြည့်လျှင် အခက်အခဲရှိလိမ့်မည် မဟုတ်ပေ။ ဤကမ္မဋ္ဌာန်းကျမ်းကြီးကို လယ်တီဆရာတော်ကြီးသည် ပျဉ်းမနားမြို့ အင်ကြင်းမြိုင် တောရ၌ဝါကပ်ဆိုနေစဉ် အခြားသောအလုပ်ကိစ္စများကြားမှရေးသားတော်မူခဲ့ရာ ၁၂၆၆–ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၀–ရက် (အေဒီ–၁၆၊ နိုဝင်ဘာလ၊ ၁၉၀၄–ခုနှစ်)တွင် ရေးသားပြီးစီး အောင်မြင်တော်မူခဲ့ပါသည်။[*၂]

---

*၁ ပထမဝါဆိုလကိုယူက အေဒီ–၂၆၊ ဇွန်လ၊ ၁၉၀၄–ခုနှစ်ဖြစ်ပြီး၊ ဒုတိယဝါဆိုလဆန်း ၁၅–ရက်ကိုယူပါက အေဒီ–၂၆၊ ဇူလိုင်လ၊ ၁၉၀၄–ခုနှစ်ဖြစ်ပါသည်။ လယ်တီဆရာတော်ကြီး၏ကမ္မဋ္ဌာန်းကျမ်းကြီး။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၈)။

*၂ လယ်တီဆရာတော်ကြီး၏ကမ္မဋ္ဌာန်းကျမ်းကြီး။ ၁၂၅၅–ခုနှစ်။ (စာမျက်နှာ–၄၀၈)။

သရဏဂုံဝိနိစ္ဆယ

လယ်တီဆရာတော်ကြီး၏ခြေတော်ရင်း၌ ဝါကပ် သီတင်းသုံးလျက်ရှိသော လယ်တီရှင်ကိတ္တိသည် ဝါကျွတ်သောအခါ ပျဉ်းမနားမြို့မှ အရှင်တိလောက(သေက္ကျတောင်ဆရာတော်)သီတင်းသုံးရာ ကျိုက်ထိုမြို့သို့ ကြွသွားခဲ့သည်။

ကျိုက်ထိုမြို့သို့ရောက်သော် အရှင်တိလောက သီတင်းသုံးရာ သေက္ကျတောင်စသည့်၌ ရသေ့ပရိဗိုဇ်များနှင့်တွေ့ဆုံရပြီး ထိုရသေ့ပရိဗိုဇ်တို့ကို ကိုးကွယ်ဆည်းကပ်နေသူများကိုလည်း တွေ့ရလေရာ ဤသို့ ရသေ့ပရိဗိုဇ်တို့ကို ကိုးကွယ်ဆည်းကပ်ခြင်းဖြင့် သရဏဂုံပျက်မည်၊ မပျက်မည်ကိုသိရှိလိုသောဆန္ဒဖြစ်ပေါ်လာလေသည်။ သို့နှင့် ပျဉ်းမနားမြို့၌သီတင်းသုံးလျက်ရှိသော လယ်တီဆရာတော်ကြီးထံတော်သို့ ရသေ့ပရိဗိုဇ်တို့ကို ကိုးကွယ်ခြင်းဖြင့် သရဏဂုံပျက်မည်၊ မပျက်မည်ကို စာဖြင့်လျှောက်ထားခဲ့သည်။ ထိုလျှောက်ထားစာသည် သက္ကရာဇ် ၁၂၆၆-ခုနှစ်၊ ပြာသိုလဆန်း ၈-ရက် (အေဒီ-၁၂၊ ဇန်နဝါရီလ၊ ၁၉၀၅)တွင် လယ်တီဆရာတော်ကြီးထံတော်သို့ ရောက်ရှိလာပါသည်။*၁

ထိုစဉ်အခါ ဆရာတော်ကြီးသည် အင်ကြင်းမြိုင်တောရအနီး စမ်းကျခေါ် စမ်းကြားတောရ*၂ ၌ ခေတ္တသီတင်းသုံးနေစဉ်အခါဖြစ်သည်။

ဤပုစ္ဆာကိုဖြေရာ၌ လယ်တီဆရာတော်ကြီးက လောက၌ ကိုးကွယ်ခြင်းနှစ်မျိုးရှိပုံကို ဦးစွာရှင်းပြသည်။ ယင်းမှာ-

> 'လောက၌ ကိုးကွယ်ရာပြုမှုမည်သည် နှစ်မျိုးရှိ၏။ သရဏဂုံကိစ္စနှင့်ကိုးကွယ်ရာပြုမှုတစ်မျိုး၊ အထူးကုသိုလ်ဖြစ်ပွားရန်ကိစ္စနှင့် ကိုးကွယ်ရာပြုမှုတစ်မျိုး-ရှိကြောင်း ပင်ဖြစ်သည်။*၃

ဤနှစ်မျိုးတွင် ဘုရား,တရား,သံဃာတို့အားကိုးကွယ်မှုသည် သရဏဂုံ ကိစ္စနှင့်ကိုးကွယ်မှုဖြစ်ပြီး၊ မိမိ မိမိတို့ ကြည်ညိုလေးမြတ်ရာဂိုဏ်းသံဃာပုဂ္ဂိုလ်ကို မိမိတို့ဆိုင်ရာ ဆရာသမားပြုလုပ်၍ အသီးအသီးကိုးကွယ်ရာပြုမှုဖြစ်သည်။ ဤသို့ကိုးကွယ်ကြရာ၌ အရှင်ကိတ္တိမေးလျှောက်သော အမေးသည် ဒုတိယကိုးကွယ်မှုဟူသော အထူးကုသိုလ်ဖြစ်ပွားရန်ကိစ္စနှင့်သာသက်ဆိုင်ပြီး-

> 'သဗ္ဗညုတဘုရားကိုရည်စူး၍ ပဗ္ဗဇိတအဖြစ်သို့ရောက်သော သိက္ခမာန် သာမဏေသီတင်းသည် ရသေ့ပရိဗိုဇ်တို့၌ ရှိခိုးခြင်းစသည်ပြုခြင်းကြောင့် သရဏဂုံသည် ပျက်စီးခြင်း,ညစ်နွမ်းခြင်းမရှိ' -ဟုဖြေဆိုခဲ့ပါသည်။*၄

---

*၁ လယ်တီဆရာတော်ကြီး၏ သရဏဂုံဝိနိစ္ဆယကျမ်းသစ်။ကဝိမျက်မှန်စာပုံနှိပ်တိုက်၊ရန်ကုန်မြို့။၁၂၈၆-ခုနှစ်။(စာမျက်နှာ-၁)။

*၂ စမ်းကျတောရသည် အထက်ရွှေဥဒေါင်းတောရ၏ အောက်ဘက်တွင်ရှိသည်။ အထက်ရွှေဥဒေါင်းတောရမှ စမ်းရေများ ကျဆင်းလာသည်ကိုအစွဲပြု၍ ဤနေရာကို စမ်းကျတောရဟု တွင်ခြင်းဖြစ်သည်။

*၃ လယ်တီဆရာတော်ကြီး၏ သရဏဂုံဝိနိစ္ဆယကျမ်းသစ်။ကဝိမျက်မှန်စာပုံနှိပ်တိုက်၊ရန်ကုန်မြို့။၁၂၈၆-ခုနှစ်။(စာမျက်နှာ-၃)။

*၄ ယင်း။ (စာမျက်နှာ-၄)။

ထို့ပြင် လယ်တီဆရာတော်ကြီးက သရဏဂုံပျက်ခြင်းနှင့်စပ်၍ဖြေကြားတော်မူရာတွင်–

'ဒုဝိဓောသရဏဂမနဘေဒေါ– အစရှိသဖြင့် ဗုဒ္ဓဘာသာကိုစွန့်၍ ဘာသာတစ်ပါးသို့ပြောင်းရွှေ့သဖြင့်ပျက်ခြင်း၊ သေလွန်သဖြင့်ပျက်ခြင်းဟူ၍ လောကီသရဏဂုံပျက်ခြင်း နှစ်ပါးကား ထင်ရှားပြီးဖြစ်၍ အကျယ်မဆိုလိုက်ပြီ။ လိုရင်းအဓိပ္ပာယ်မှာမူကား– ရှင်ဂေါတမဘုရားကို ဘုရားကောင်းမဟုတ်, ရှင်ဂေါတမ၏တပည့် အရိယာသံဃာကို သံဃာကောင်းမဟုတ်ဟု စိတ်ဆုံးဖြတ်သည်နှင့်တစ်ပြိုင်နက် ထိုသူမှာ သရဏဂုံပျက်၏။ ထိုသို့သောစိတ်မျိုးမရှိမူ၍ ဘုရားကိုလည်းကောင်း၊ မင်္ဂလေးတန်, ဖိုလ်လေးတန်, နိဗ္ဗာန်, ပရိယတ်တရားကိုလည်းကောင်း၊ ရှစ်ယောက်သော အရိယာသံဃာတော်တို့ကိုလည်းကောင်း ယုံကြည်မြဲ ကိုးကွယ်မြဲတိုင်းသောစိတ်ကို မစွန့်မူ၍ ကုသိုလ်ပွား, ပညာပွား, ဘေးကင်းရန်ကင်းအားဖြင့် တစ်ပါးသောပုဂ္ဂိုလ် တစ်ပါးသောဆရာ မင်းစိုးရာဇာ မိစ္ဆာစုန်းနတ်အစရှိသည်ကို ရှိခိုးဝပ်တွား ခစားရှိသေ ကိုးကွယ်လေသော် သရဏဂုံမပျက်ဟုမှတ်'[*၁]–ဟူ၍လည်း ထည့်သွင်းရေးသားတော်မူပါသည်။

ဤသရဏဂုံဝိနိစ္ဆယကို လယ်တီဆရာတော်ကြီးသည် ပျဉ်းမနားမြို့ စမ်းကျတောရ၌ သီတင်းသုံးနေစဉ်အခါ သက္ကရာဇ် ၁၂၆၆–ခုနှစ်၊ ပြာသိုလဆန်း ၁၃–ရက် (အေဒီ–၁၇၊ ဇန်နဝါရီလ၊ ၁၉၀၅–ခုနှစ်) တွင် ရေးသားပြီးစီးတော်မူပါသည်။[*၂]

**သဒ္ဒသံခိပ်**

အဘိဓမ္မာအခြေခံနုနယ်သောလူပုဂ္ဂိုလ်ပိုင်းတွင် ကလေးငယ်များပင် ပရမတ္ထသံခိပ်ကျမ်းကို ကျက်မှတ်ရွတ်ဆိုခြင်းဖြင့် အဘိဓမ္မာတရားတော်တို့၏အခြေခံကိုရနိုင်ကြပြီဟူသော သတင်းကို ကြားသိတော်မူသောအခါ လယ်တီဆရာတော်ကြီးက စာသင်သားတို့အတွက်သာမက ပါဠိဘာသာကို ချဉ်းကပ်လိုသူများအတွက်ပါ လွယ်လင့်တကူနှင့် ပါဠိသဒ္ဒါအခြေခံရကြစေရန် သဒ္ဒသံခိပ်ကျမ်းကို ပျဉ်းမနားမြို့ အင်ကြင်းမြိုင်တောရ၌ ဝါကပ်ဆိုစဉ်ကာလအတွင်းကစ၍ နည်းနည်းချင်း ရေးစပ်တော်မူခဲ့ရာ သက္ကရာဇ် ၁၂၆၆–ခုနှစ်၊ ပြာသိုလ (အေဒီ ၁၉၀၅–ခုနှစ်၊ ဖေဖော်ဝါရီလ)တွင် ပဏာမနှင့်တကွ ၇၆၈–ပိုဒ်ပါရှိသော သဒ္ဒသံခိပ်ကျမ်း ရေးသားပြီးစီးအောင်မြင်ခဲ့ပါသည်။[*၃]

**မုံရွာမြို့သို့ပြန်လည်ရောက်ရှိခြင်း**

လယ်တီဆရာတော်ကြီးသည် ပျဉ်းမနားမြို့ မလှိုင်မြို့ တောင်သာမြို့မှစ၍ ထိုမြို့ရွာဒေသတစ်ဝိုက် ခရီးစဉ်လှည့်လည်၍ တရားဟောပြောခြင်း၊ သံခိပ်အသင်းများဖွဲ့စည်းပေးခြင်း

[*၁] လယ်တီဆရာတော်ကြီး၏ သရဏဂုံဝိနိစ္ဆယကျမ်းသစ်။ ကဝိမျက်မှန်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၆–ခုနှစ်။ (စာမျက်နှာ–၂၀)။

[*၂] ယင်း။ (စာမျက်နှာ–၃၃)။

[*၃] လယ်တီပဏ္ဍိတ၏ သဒ္ဒသံခိပ်အမေးအဖြေ။ ကဝိမျက်မှန်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၉၃–ခုနှစ်။ (စာမျက်နှာ–က)။ လယ်တီပဏ္ဍိတ၏ သဒ္ဒမဋ္ဌရီကျမ်း။ ကဝိမျက်မှန်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၉၆–ခုနှစ်။ (စာမျက်နှာ–က၊ ၄၄၄)။

စသည် ဖြင့်ပြုလုပ်ဆောင်ရွက်တော်မူပြီးနောက် ပြာသို/တပို့တွဲလ ဆောင်းရာသီကာလ (အေဒီ ၁၉၀၅–ခုနှစ်၊ ဖေဖော်ဝါရီလ)တွင် မုံရွာမြို့ လယ်တီတိုက်ကြီးသို့ ပြန်လည်ဆိုက်ရောက်တော်မူခဲ့ပါသည်။

ဤသို့ လယ်တီတိုက်အတွင်း၌သီတင်းသုံးနေတော်မူစဉ် လယ်တီဆရာတော်ကြီးက တပည့်သိက္ခာတော် ၇–ဝါရ လယ်တီပဏ္ဍိတအား 'မိမိစီရင်ရေးသားသော ပရမတ္ထသံခိပ်လင်္ကာတို့ကို သံခိပ်လေ့ကျက်သူတို့ အထောက်အကူပြုစေရန် အပိုင်းအလိုက်ရှင်းလင်းရေးသားရန်လိုအပ်နေကြောင်း၊ လွန်ခဲ့သောတန်ဆောင်မုန်းလအခါက ဆရာသဲကြီးတောင်းပန်၍ ကမ္မဋ္ဌာန်းပိုင်း ရှင်းလင်းချက် ကမ္မဋ္ဌာန်းကျမ်းကြီးကို ငါတို့ရေးသားခဲ့ရကြောင်း၊ ယခုကျန်သောအပိုင်းတို့ကို သင်တို့ရေးသားရန်သင့်ကြောင်း၊ ဤသင်္ဂြိုဟ်(၉)ပိုင်းတို့တွင် ပစ္စည်းပိုင်းနှင့်ဝီထိပိုင်းတို့သည် ခက်ခဲနက်နဲကုန်သည်ဖြစ်၍ ၎င်းအပိုင်းတို့၏အဖွင့်တို့ကို ဦးစွာရေးသားရမည်'ဟု အမိန့်တော်ရှိလေသည်။*၁

လယ်တီပဏ္ဍိတကိုယ်တော်သည် ဆရာတော်ကြီး၏မိန့်တော်မူချက်အတိုင်းပင် ပစ္စည်းပိုင်း၏သရုပ်အဓိပ္ပာယ်ကို ဆန်းကြယ်သောနည်းနာဇယားအမျိုးမျိုးတို့ထုတ်ပြလျက် ပရမတ္ထဒီပနီပါဠိလာအယူအဆများကိုသွတ်သွင်းပြီး ရေးသားခဲ့သည်။ ဤသို့ရေးရာတွင် ပစ္စည်းအမျိုးမျိုးတို့ကို နည်းနာအမျိုးမျိုးတို့ဖြင့် အခိုင်ခိုင်အမြှာမြှာထုံးဖွဲ့၍ပြရာဖြစ်သောကြောင့် 'ပစ္စယမဥ္ဇရီ'ဟု ကျမ်းအမည်ကို အမည်ပေးခဲ့သည်။*၂

လယ်တီပဏ္ဍိတသည် ပစ္စယမဉ္ဇရီအမည်ရှိသောကျမ်းကို သက္ကရာဇ် ၁၂၆၆–ခုနှစ်၊ တပို့တွဲလဆန်း ၁၃–ရက်၊ ကြာသပတေးနေ့ (အေဒီ–၁၆၊ ဖေဖော်ဝါရီလ၊ ၁၉၀၅–ခုနှစ်) တွင် မုံရွာမြို့ လယ်တီတိုက်အတွင်း၌ ရေးသားပြီးစီးခဲ့ပါသည်။ ဤပစ္စယမဉ္ဇရီကျမ်း ရေးသားရသောကောင်းမှုပုညအတွက် လယ်တီပဏ္ဍိတတောင်းဆိုသောဆုမှာ အောက်ပါအတိုင်းဖြစ်သည်။

ပုညေနေတေန သောနာဂေါ၊ တောသေန္တော သကလံ ဇနံ။
ဓမ္မနာဒံ ဥန္နာဒေတု၊ တောသိတာ တမနွေန္တု တေ။

**ဧတေနပုညေန**– ဤပစ္စယမဉ္ဇရီမည်သောကျမ်းကိုပြုရခြင်းတည်းဟူသော ကောင်းမှုကြောင့်၊ သောနာဂေါ– ထိုဆင်ပြောင်ကြီးတည်းဟူသော လယ်တီမဟာထေရ်မြတ်သည်၊ သကလံဇနံ– အလုံးစုံသောလူများအပေါင်းကို၊ တောသေန္တော– နှစ်သိမ့်စေလျက်၊ ဓမ္မနာဒံ– တရားတည်းဟူသော ကြိမ်းဟိန်း ကျူးရင့်သံကို၊ ဥန္နာဒေတု–ကြိမ်းဟိန်း ကျူးရင့်တော်မူစေသတည်း။ တောသိတာ–တရားဖြင့်နှစ်သိမ့်စေအပ်ကုန်သော၊ တေ–ထိုသူတော်ကောင်းအပေါင်းတို့သည်၊ တံ–ထိုမဟာထေရ်မြတ်၏အလိုတော်သို့၊ အနွေန္တု–လိုက်နိုင်ကြစေကုန်သတည်း။

---

*၁ လယ်တီပဏ္ဍိတ၏ ပစ္စယမဉ္ဇရီကျမ်းနှင့် ဒွိမူလဒီပနီကျမ်း။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၇–ခုနှစ်။ (စာမျက်နှာ–ဂ၊ ဃ)။

*၂ ယင်း။ (စာမျက်နှာ–င)။

အာရဗ္ဘိတုံ သက္ကုဏန္တု၊ ဣမံ သြဒဂျမာနသာ။
သက်ပ္ပါစသ သိဇ္ဈန္တု၊ ပါတု မံ သရဒေါသတံ-။

ဣမံ-ဤပစ္စယမဋ္ဌရီကျမ်းကို၊ သြဒဂျမာနသာ-ဝမ်းသာအားရမ်း ရွှင်လန်းတက်ကြွသောစိတ်ရှိကုန်သည်ဖြစ်၍၊ အာရဘိတုံ- အားထုတ်ကြည့်ရှုခြင်းငှာ၊ သက္ကုဏန္တု-စွမ်းနိုင်ကြစေကုန်သတည်း။ အသ-ထိုမဟာထေရ်မြတ်၏၊ သက်ပ္ပါစ-ကောင်းသောအကြံအစည်တော်တို့သည်လည်း၊ သိဇ္ဈန္တု-ပြီးပြည့်စုံစေကုန်သတည်း။ မံ-ငါ့ကို၊ သရဒေါသတံ-တန်ဆောင်မုန်းမာသ ဝါရတရာပတ်လုံး၊ ပါတု-စောင့်ရှောက်နိစ္စ စောင်မတော်မူစေသတည်း။[*၁]

ဤနှစ်ဂါထာတွင် ဒုတိယမြောက်ဂါထာ၏အဆုံး ဒုတိယပဒလာ 'သရဒေါသတံ'ဟူသည် 'တန်ဆောင်မုန်းလပေါင်းတစ်ရာ'ကိုဆိုလိုသည်။ တန်ဆောင်မုန်းလသည် တစ်နှစ်လျှင်တစ်ကြိမ်သာရှိလေရာ တန်ဆောင်မုန်းလပေါင်းတစ်ရာ-ဟုဆိုလျှင် နှစ်ပေါင်း(၁၀၀)ဟူသောစကားနှင့် အတူသာဖြစ်သည်။ ဤသို့ တန်ဆောင်မုန်းလပေါင်း(၁၀၀) တစ်နည်း-နှစ်ပေါင်း(၁၀၀) ကာလကြာမြင့်သည့်တိုင်အောင် မိမိအား လယ်တီဆရာတော်ကြီးကစောင့်ရှောက်တော်မူပါ-ဟူသောစကားတွင် လယ်တီဆရာတော်ကြီးသည် ထိုနှစ်ပေါင်း(၁၀၀)အသက်ရှည်တည်တံ့တော်မူသကဲ့သို့ မိမိလယ်တီပဏ္ဍိတသည်လည်း နှစ်ပေါင်း(၁၀၀)တိုင် အသက်ရှည်တည်တံ့လိုပါကြောင်း ဆုမွန်တောင်းပြီးဖြစ်ရာ၊ မပြောသော်လည်းသိရသည့် အဝုတ္တသိဒ္ဓိနည်းတို့ဖြင့် ဤနေရာတွင်ရေးဖွဲ့ခဲ့ခြင်းဖြစ်သည်။

အမြင့်မြို့[*၂]

သက္ကရာဇ် ၁၂၆၇-ခုနှစ်၊ ကဆုန်လဆန်း ၉-ရက် (အေဒီ-၁၁၊ မေလ၊ ၁၉၀၅-ခုနှစ်)တွင် အမြင့်မြို့သူကြီးမင်းအမှူးရှိသော အမြင့်မြို့သူမြို့သားအပေါင်းတို့၏ပင့်လျှောက်ချက်အရ လယ်တီဆရာတော်ကြီးသည် ရဟန်းတပည့်၊ ဥပါသကာတပည့်များနှင့် အမြင့်မြို့သို့ရောက်ရှိတော်မူခဲ့ပါသည်။

အမြင့်မြို့သည် သလ္လာဝတီချောင်းတွင်းမြစ်၏ဦးထိပ်ရှေ့ကမ်း၌ ရှေးမင်းအဆက်ဆက်တို့၏ ကုသိုလ် စေတီ,ပုထိုး,ရုပ်ပွားတို့တည်ရှိ၍ သာသနာထွန်းလင်းရာဌာနလည်းဖြစ်သည်။[*၃] ထိုအမြင့်မြို့သည် မြစ်ဆိပ်ကမ်းဖြစ်သည့်အားလျော်စွာ မြစ်ပြင်လေတဖြူးဖြူးနှင့် လွန်စွာသာယာ

---

[*၁] လယ်တီပဏ္ဍိတ၏ ပစ္စယမဋ္ဌရီကျမ်းနှင့် ဒွိမူလဒီပနီကျမ်း။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၇-ခုနှစ်။ (စာမျက်နှာ ၁၅၀-၁၅၁)။

[*၂] စစ်ကိုင်းတိုင်း၊ မုံရွာခရိုင်၊ ချောင်းဦးမြို့နယ်အတွင်းတည်ရှိပါသည်။ ဤမြို့ကို မေတ္တေယျရှင်ပွင့်တော်မူပါက 'ဖူးမစဲ'ဟု အမည်တွင်လိမ့်မည်ဖြစ်ကြောင်း အဆိုရှိပါသည်။

[*၃] အမြင့်မြို့တွင် ဘုရားပုထိုးပေါင်း (၃၃၆)ဆူ၊ ဘုန်းကြီးကျောင်းပေါင်း (၁၁)ကျောင်းရှိသည်။ မောင်မောင်ချစ်ဦး(မုံရွာ)၏ ရှေးဟောင်း အမြင့်မြို့။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၂၀၀၄-ခုနှစ်။ (စာမျက်နှာ-၄)။



လယ်တီဆရာတော်ကြီး ခေတ္တသီတင်းသုံးရာ အမြင့်မြို့





အမြင့်မြို့မနောဟရိဥယျာဉ်နေရာနှင့်ရေကန်

လယ်တီဆရာတော်ဘုရားကြီး

ရေးသားတော်မူအပ်သော

သဒ္ဒသံခိပ်

ကျမ်းကိုးဆရာတော်ဘုရားကြီး၏တပည့်

လယ်တီပဏ္ဍိတ

အရှင်ဘွင့်ဆိုရေးသားအပ်သော

သဒ္ဒမဥ္ဇူရီကျမ်း။

(စာအုပ်ရှင်-မအေးမေ၊)

သက္ကရာဇ်-၁၂၇၀ပြည့်နှစ် နယုန်လ-အတွင်း

ပုံနှိပ်၍ပြီးသည်၊

ရန်ကုန်မြို့၊

၂၅-လမ်းစာဆိုတန်းတိုက်နံပါတ်-၄၉

ကာဝိမျက်မှန်စာပုံနှိပ်တိုက်၊

မောင်ချစ်ရ၊

အမြင့်မြို့၌
လယ်တီဆရာတော်ကြီးသီတင်းသုံးနေစဉ်
လယ်တီပဏ္ဍိတကိုယ်တော်
ရေးသားခဲ့သော
သဒ္ဒမဥ္ဇူရီကျမ်း

သောမြို့ဖြစ်သည်။ တစ်မြို့လုံး သစ်ပင်ကြီးငယ်ပေါက်ရောက် ပန်းရန့်ထုံသင်း သီးမျိုးစုံတို့ ပေါများကာ ဥယျာဉ်မြို့တော်ကြီးသဖွယ်လည်းဖြစ်သည်။ လယ်တီဆရာတော်ကြီးသည် ဤမျှ သာယာတင့်တယ်သော အမြင့်မြို့သို့ဆိုက်ရောက်တော်မူသောအခါ မင်းတုန်းမင်းလက်ထက် အခါက အမြင့်သူကြီးစီမံပြုလုပ်ထားသော မနော်ဟရီအမည်ရှိသော အထူးတင့်တယ်သာယာ သည့် ဥယျာဉ်ကြီးအတွင်းဆောက်လုပ်ထားအပ်သော ယာယီတဲကျောင်းကြီးတွင် သီတင်းသုံး တော်မူပါသည်။*၁

လယ်တီဆရာတော်ကြီးသည် အမြင့်မြို့တွင်သီတင်းသုံးနေစဉ် တောကျောင်းလေးရွာသို့ ဆွမ်းခံကြွသည်။ ရံခါ နဂါးပိုရွာက ဆရာတော်ကြီးထံ ဆွမ်းအုပ်ကြီးငယ်တို့ဖြင့် ဆွမ်းကပ်လာ ကြသည်။ အမြင့်မြို့ မနော်ဟရီဉယျာဉ်အတွင်း လယ်တီဆရာတော်ကြီးသီတင်းသုံးနေတော် မူစဉ် မုံရွာမြို့ လယ်တီတိုက်၌ကျန်ရစ်သော လယ်တီပဏ္ဍိတသည် ကဆုန်လဆန်း ၁၃–ရက် (အေဒီ–၁၅၊ မေလ၊ ၁၉၀၅–ခုနှစ်)တွင် အမြင့်မြို့သို့ရောက်ရှိလာခဲ့သည်။ အမြင့်မြို့၌သီတင်းသုံး နေထိုင်စဉ်အတွင်း ဆရာတော်ကြီး၏အမိန့်တော်အရ ရေးသားပြုစုလျက်ရှိသော သဒ္ဒသံခိပ်ကျမ်း၏ အဖွင့်သဒ္ဒသင်္ခေပဒီပနီခေါ် သဒ္ဒမဥ္စရီကျမ်းစာကို ထိုနှစ် နယုန်လဆုတ် ၇–ရက် (အေဒီ–၂၃၊ ဇွန်လ၊ ၁၉၀၅–ခုနှစ်) တွင် အပြီးအစီးရေးသားခဲ့လေသည်။

**စတ္တာလီသမဝါကပ်တော်မူခြင်း**

လယ်တီဆရာတော်ကြီးသည် အမြင့်မြို့၌ခေတ္တသီတင်းသုံးနေထိုင်၍ အမြင့်သူအမြင့်သား၊ ချောင်းဦးသူချောင်းဦးသားတို့အား တရားဓမ္မဟောကြားပြီး မုံရွာမြို့လယ်တီတိုက်သို့ ပြန်လည် ကြွမြန်းတော်မူခဲ့ပါသည်။

သက္ကရာဇ် ၁၂၆၇–ခုနှစ်၊ ဝါဆိုလ(အေဒီ ၁၉၀၅–ခုနှစ်၊ ဇူလိုင်လ)တွင် မြင်းခြံမြို့ ကလျာဏ သင်္ဂဟအသင်းသူအသင်းသား မြင်းခြံမြို့သူမြို့သားများပင့်ဖိတ်သည့်အတွက် မြင်းခြံမြို့သို့ဝါကပ် ရန်ကြွတော်မူပါသည်။ မြင်းခြံမြို့ရောက်ရှိလျှင် ကလျာဏသင်္ဂဟအသင်းသားတို့၏ပိဋကတ် တိုက်ကျောင်း*၂ ၌ ခေတ္တသီတင်းသုံးနေပါသည်။

ထိုစဉ်အခါ လယ်တီပဏ္ဍိတကိုယ်တော်သည် ဆရာတော်ကြီးနှင့်အတူလိုက်ပါလာသည် ဖြစ်ပြီးလျှင် မြင်းခြံမြို့သို့ရောက်သည်တွင် ပိဋကတ်တိုက်ကျောင်း၌ခေတ္တသီတင်းသုံးခိုက် သဒ္ဒသံခိပ် ကျမ်း၊ သဒ္ဒမဥ္စရီကျမ်းစသည့် ပါဠိဘာသာဆိုင်ရာသဒ္ဒါကျမ်းစာတို့နှင့် တွဲဖက်ကြည့်ရှုရန် ပါဠိဓာတ် အစဉ်ကိုဆောင်ပုဒ်ပြုလုပ်၍ဖော်ပြထားသော 'ဓာတုမဥ္စရီ'အမည်ရှိသောကျမ်းငယ်ကို ရေးသား

*၁ လယ်တီပဏ္ဍိတ၏ သဒ္ဒမဥ္စရီကျမ်း။ ၁၂၉၆–ခုနှစ်။ (စာမျက်နှာ–၄၄၈)။ မနော်ဟရီဉယျာဉ်ကြီးသည် အမြင့်–ချောင်းဦး လမ်းပေါ်ရှိ တိုက်နယ်ဆေးရုံ၏ အရှေ့ဘက်နေရာဖြစ်သည်။ ဤဉယျာဉ်ကြီးအတွင်း ရှေးက မင်းညီမင်းသားများ ဥယျာဉ်ထွက်ကြကြောင်း သိရသည်။

*၂ ဤတိုက်ကျောင်းသည် သက္ကရာဇ် ၁၂၆၀/၁၂၆၁–ခုနှစ်တွင်တည်ဆောက်၍ ယခု မြင်းခြံမြို့၊ (၇)ရပ်ကွက်၊ ဘူတာရုံလမ်း၊ ရန်အောင်မြင် ဘုရားကြီးဝင်းအတွင်း၌ တည်ရှိပါသည်။



မြင်းခြံမြို့၊ရန်အောင်မြင်ပိဋကတ်တိုက်ကျောင်းနေရာ



မြင်းခြံမြို့အစွန်ရှိ လယ်တီဆရာတော်ကြီးဝါကပ်သီတင်းသုံးတော်မူရာဌာန

တော်မူခဲ့ရာ၊ သက္ကရာဇ် ၁၂၆၇–ခုနှစ်၊ ဝါဆိုလဆန်း ၁၅–ရက် (အေဒီ–၁၅၊ ဇူလိုင်လ၊ ၁၉၀၅–ခုနှစ်)တွင် ရေးသားပြီးစီးခဲ့ပါသည်။[*၁]

လယ်တီဆရာတော်ကြီးသည် ဝါကပ်ရန်အချိန် (အေဒီ ၁၉၀၅–ခုနှစ်၊ ဇူလိုင်လ)သို့ရောက်သော် ပိဋကတ်တိုက်ကျောင်းနေရာသည် မြို့ရွာတွင်းဖြစ်နေသဖြင့် မြင်းခြံမြို့အစွန်သုသာန်နေရာနှင့် ကန်လည်ကျောင်းအနီးရှိ တောရဝါဆိုစကြံကျောင်း၌ အကြိမ်(၄၀)မြောက် စတ္တာလီသမဝါကို ကပ်ဆိုတော်မူပါသည်။ မြင်းခြံမြို့တွင် ဝါကပ်စဉ်အတွင်း ပရမတ္ထသံခိပ်အသင်း၊ ပဋ္ဌိစ္စသမုပ္ပါဒ်အသင်း၊ ဝိပဿနာအသင်းတို့ကိုတည်ထောင်၍ မြင်းခြံမြို့သူမြို့သားအပေါင်းတို့အား အဘိဓမ္မာတရားတော်ကြီးကိုလည်း ဟောကြားတော်မူခဲ့ပါသည်။[*၂]

## ဦးထွန်းလှိုင်၏ ပုစ္ဆာ(၁၂)အဖြေဝိသဇ္ဇနာ

လယ်တီဆရာတော်ကြီး မြင်းခြံမြို့ တောရကျောင်း၌ ဝါကပ်နေတော်မူစဉ် သက္ကရာဇ် ၁၂၆၇–ခုနှစ်၊ ဝါခေါင်လဆန်း ၇–ရက် (အေဒီ–၆၊ ဩဂုတ်လ၊ ၁၉၀၅–ခုနှစ်)တွင် ပျဉ်းမနားမြို့မှ ဓမ္မစေ္စဝါသိကတပည့်ရင်း ပရမတ္ထသံခိပ်အသင်းခေါင်းဆောင် ဒကာဦးထွန်းလှိုင်ထံမှ ပုစ္ဆာ(၁၂)ရပ်တို့ကို မေးလျှောက်သောစာသည် ဆရာတော်ကြီးလက်တော်သို့ဆိုက်ရောက်လာပါသည်။

ဆရာတော်ကြီးက ဦးထွန်းလှိုင်၏ပုစ္ဆာ(၁၂)ရပ်တို့ကိုဖတ်ရှုရတော်မူသောအခါ 'ဤပုစ္ဆာတို့အရ တရားကျမ်းဂန်အကြံအစည် လက်ကိုင်လက်စွဲ အလွန်မြဲကာ ဗုဒ္ဓဘာသာအနွယ်အရိုးအမျိုးကောင်းသား သဗ္ဗညုမြတ်စွာဘုရား၏တပည့်ဒကာပြီလှပေသည်'ဟူ၍ ဦးထွန်းလှိုင်ကို ချီးမြှောက်စကားမိန့်ကြားတော်မူခဲ့သည်။[*၃] လယ်တီဆရာတော်ကြီးသည် ဦးထွန်းလှိုင်၏ပုစ္ဆာ(၁၂)ချက်ကို မဆိုင်းမတွ ချက်ချင်းဖြေဆိုရာ ငါးရက်အကြာ ၁၂၆၇–ခုနှစ်၊ ဝါခေါင်လဆန်း (၁၂)ရက် (အေဒီ–၁၁၊ ဩဂုတ်လ၊ ၁၉၀၅–ခုနှစ်)တွင် ပြီးစီးတော်မူခဲ့ပါသည်။[*၄]

## မိတ္ထီလာ၊ တောင်သာ၊ ပခုက္ကူစသည်သို့

လယ်တီဆရာတော်ကြီးသည် မြင်းခြံ၌ဝါကပ်နေစဉ်အတွင်း မြင်းခြံမြို့အနီးတစ်ဝိုက်ရှိ ရွာများသို့ တရားဟောရန်ကြွတော်မူလေ့ရှိပြီး၊ ရံခါ တောင်သာ၊ မိတ္ထီလာ၊ ရံခါ ပခုက္ကူစသည့်မြို့များသို့ပင်ရောက်ရှိတော်မူကာ တရားသဘင်ပွဲကြီးများကိုဆင်ယင်ကျင်းပတော်မူခဲ့ပါသည်။[*၅]

---

[*၁] လယ်တီဆရာတော်ကြီး၏ သဒ္ဒသံခိပ်ကျမ်းနှင့် လယ်တီပဏ္ဍိတ၏ ဓာတုမဉ္ဇရီကျမ်း။ မိခင်ရောဝတီစာအုပ်တိုက်၊ ရန်ကုန်မြို့။ ၂၀၀၂–ခုနှစ်။ (စာမျက်နှာ–၁၃၅)။

[*၂] လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၅၂)။

[*၃] ဦးထွန်းလှိုင်၏ ဂိဟိသမာစာရ–ဝါရိတ္တ–စာရိတ္တ ဒီပကစာတမ်းနှင့် ပုဂ္ဂလိက–သံဃိက ဖလဒဿာဒီကျမ်း။ ခေါင်းဆောင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၁၅–ခုနှစ်။ (စာမျက်နှာ–၇၈)။

[*၄] ယင်း။ (စာမျက်နှာ–၉၁)။

[*၅] တသ္မိံ ဝသေ မဟာထေရော၊ စရိတွာ ဒေသစာရိကံ။ မိထိလာဒီသု ဌာနေသု၊ ဇနယီ ဒေသနုဿဝံ။ (ဂါထာ–၃၉)။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ကဗျာမဉ္ဇရီ။ ၁၃၂၃–ခုနှစ်။ (စာမျက်နှာ–၁၆၆)။



မိတ္ထီလာမြို့ဆိုင်းတန်းရပ်ရှိ ရေလည်ကျောင်းကြီးကို မိတ္ထီလာကန်တော်ကြီးဘက်မှ ရှုမြင်ရပုံ။



မလှိုင်မြို့၌ လယ်တီဆရာတော်ကြီးခေတ္တသီတင်းသုံးရာ ဒါယိကာမကြီးဒေါ်သိမ်းနွဲ့တိုက်

မိတ္ထီလာမြို့သို့ရောက်စဉ်က ဆိုင်းတန်းရပ်ရှိ မိတ္ထီလာကန်စပ် အသောကာရုံ ရေလည်ကျောင်း[*၁] ၌ သီတင်းသုံးတော်မူပါသည်။ ဤကျောင်းဝင်းအတွင်း ညစဉ်တရားပွဲကြီးများပြုလုပ်ကျင်းပခဲ့ပါသည်။[*၂] ဤသို့တရားပွဲပြုလုပ်စဉ်အခါ ဖြစ်ပေါ်ခဲ့သောထူးခြားချက်တို့ကို လယ်တီဦးဝဏ္ဏိတက နောင်အခါ အောက်ပါအတိုင်းမှတ်တမ်းတင်ရေးသားခဲ့ပါသည်။

မိတ္ထီလာမြို့ရေလည်ကျောင်းကြီးတွင် ပရမတ္ထသံခိပ်စာပြန်ပွဲကြီးပြုလုပ်ရာ ငါးညဥ့်တိုင်တိုင် အနတ္တငါးပါးတရားကြီးကိုဟောရာ ကြီးစွာသောလျှောင်တုန်လှုပ်ခြင်း၊ မိတ္ထီလာကန်ကြီးရေတိုးခြင်းဟူသော ထူးဆန်းအံ့သြဖွယ် အချက်ကြီးနှစ်ချက်ဖြစ်ပေါ်လာသည်။

ဘာကြောင့်သိရပါသလဲဆိုလျှင် တရားနာပရိသတ်တို့အလယ်၌ တံခွန်တိုင်ကြီးတစ်ခုရှိ၏။ ၎င်းအနား၌နေသောသူတို့သည် 'တံခွန်တိုင်လဲသည်–တံခွန်တိုင်လဲသည်'ဟု အုတ်အုတ်ကျက်ကျက် တစ်ခဲနက်ကြီးဖြစ်၍ ကသောကမျော ထ,ပြေးကြသည်။ တရားနာပရိသတ်များ လှုပ်လှုပ်ရွရွဖြစ်၍ အကြောင်းကိုရှာသောအခါ တံခွန်တိုင်မလဲ၊ လျှောင်လှုပ်၍ယိမ်းယိုင်နေရုံမျှသာဟု သိရလေ၏။

မိတ္ထီလာကန်တော်ကြီးရေတိုးခြင်းအကြောင်းကား ဆွမ်းချက်သောဒါယိကာမကြီးတစ်ယောက် နံနက်စောစော မိုးမလင်မီရေခပ်သွားရာ ညဥ့်ဦးကခင်းထားသော နင်းကြမ်းပျဉ်အထက် ရေတစ်တောင်လောက်တိုးနေသည့်အတွက် နင်းကြမ်းပျဉ်ကို ရွေ့ထားရကြောင်းပြောမှ တစ်ဆင့်စကားတစ်ဆင့်ကြားကာ လူအများ ရေတိုးကြောင်း သိရသည်။[*၃]

ပခုက္ကူသို့ လယ်တီဆရာတော်ကြီးကြွရောက်စဉ်ကလည်း လယ်တီဆရာတော်ကြီးသည် ပခုက္ကူမြို့သို့ရောက်ရှိလျှင် မန္တလေးမြို့မြောက်ပြင် စံကျောင်းတိုက်၌နေတော်မူစဉ်ကပင် သစ်ဆိမ့်တိုက်၌သီတင်းသုံး၍ စာပေပို့ချနေတော်မူသော ရေစကြိုဆရာတော်ကြီးလောင်းလျာ အရှင်ဂန္ဓသာရမထေရ်အား ကြည်ညိုရင်းစွဲရှိခဲ့သည့်အတိုင်း ရေစကြိုဆရာတော်ကြီးအရှင်ဂန္ဓသာရမဟာထေရ်[*၄] သီတင်းသုံးတော်မူရာ ဆောက်လုပ်ပြီးစ မဟာဝိသုတာရာမတိုက်သို့[*၅] ဝင်ရောက်၍ ဦးတိုက်တော်မူပါသည်။ ဆရာတော်ကြီးနှစ်ပါးဆုံတွေ့ရာ၌ လယ်တီဆရာတော်ကြီးက မိမိသိလို

---

*၁ ရေလည်ကျောင်းသည် ယခုအခါ ရေလည်တောင်ကျောင်း၊ ရေလည်မြောက်ကျောင်းနှင့် ရေလည်အနောက်ကျောင်း–ဟု ကျောင်းသုံးကျောင်းရှိနေပါသည်။

*၂ ရေလည်ကျောင်းဆရာတော် ဦးလာဘဝတ (ဘုန်းဘုန်းလေး) (၂၁၊ ၁၀၊ ၁၉၉၇)နေ့က အမိန့်ရှိခြင်းဖြစ်သည်။

*၃ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၅၂)။

*၄ ရေစကြိုဆရာတော်ဘုရားကြီးသည် လယ်တီဆရာတော်ကြီးထက် သက်တော်(၁၄)နှစ် ကြီးတော်မူပါသည်။

*၅ မဟာဝိသုတာရာမတိုက်ကြီးကို သက္ကရာဇ် ၁၂၆၅–ခုနှစ်၊ တပို့တွဲလဆုတ် ၄–ရက် (၅၊ ၁၊ ၁၉၀၄)တွင် ကျောင်းဒကာဦးစံပေါ်–ဒေါ်ငွေတို့က အုတ်မြစ်ချတည်ဆောက်၍ သက္ကရာဇ် ၁၂၆၆–ခုနှစ်၊ ဒုတိယဝါဆိုလဆန်း ၈–ရက် (၁၉၊ ၇၊ ၁၉၀၄) တွင် စာတဒ္ဒိသသံဃိက ကျောင်းအဖြစ် ရေစက်ချလှူဒါန်းထားပါသည်။ အရှင်ကေလာသ၏ ပခုက္ကူသာသနာဝင်။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၅၀၊ ၅၁)။

သော သာသနာရေးနှင့်စပ်သောစကားများကို တင်ပြလျှောက်ထားပါသည်။ ဤသို့ စကားပြော ကြရင်း ယခုအခါ လယ်တီဆရာတော်ကြီးမှာ အမြို့မြို့အရွာရွာသို့လှည့်လည်ပြီး တရားဓမ္မများ ဟောကြားနေကြောင်းကို ရေစကြိုဆရာတော်ဘုရားကြီးသိရှိတော်မူပြီးဖြစ်၍ ရေစကြိုဆရာတော် ဘုရားကြီးက–

> 'မောင်လယ်တီ၊ မောင်လယ်တီ စာချနေတယ်ဆိုလို့ ရည်ညွှန်းပြီးမေတ္တာပို့ပါ၏။ သို့ရာတွင် နောက် စာချဖျက်, မြို့ရွာလယ်တရားဟောတယ်ကြားလို့ သဗ္ဗေသတ္တာ ထဲထည့်လိုက်ပြီ'–ဟုမိန့်တော်မူလေရာ လယ်တီဆရာတော်ကြီးမှာ ပြုံးတော်မူ၍ ဆရာတော်ဘုရားကြီးကို ပိုမိုကြည်ဟန်အမူအရာပြုတော်မူလေသည်။*၁

**လယ်တီဆရာတော်ကြီးကျမ်းစာများပေါ်ထွက်လာခြင်း**

ဤသို့ လယ်တီဆရာတော်ကြီး အမြို့မြို့အရွာရွာသို့လှည့်လည်၍ ဝိပဿနာ,အဘိဓမ္မာ စသော တရားဒေသနာများဟောကြားခြင်း၊ ပရမတ္ထသံခိပ်အသင်းတို့ကိုဖွဲ့စည်း၍ အဘိဓမ္မာ သာသနာပြုခြင်း၊ ကျမ်းဂန်စာပေတို့ကိုရေးသားခြင်း၊ ရံခါဖြစ်ပေါ်လာတတ်သော သံဃာ အဓိကရဏ်း, ဝိဝါဒအဓိကရဏ်း စသည်ကိုဖြေရှင်းပေးခြင်း–စသည်ဖြင့် သာသနာပြုလုပ်ငန်း တို့ကိုဆောင်ရွက်တော်မူစဉ်ကာလအတွင်း ဆရာတော်ကြီးရေးသားပြုစုသောကျမ်းဂန်စာပေ အသီးသီးတို့ကို ရန်ကုန်မြို့ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ဟံသာဝတီပုံနှိပ်တိုက်စသော ပုံနှိပ်တိုက် တို့က တစ်အုပ်ပြီးတစ်အုပ် ပုံနှိပ်ထုတ်ဝေခဲ့ကြပါသည်။

သက္ကရာဇ်–၁၂၆၇ (အေဒီ–၁၉၀၅)ခုနှစ်အတွင်း၌ ရူပဒီပနီ၊ နိရုတ္တိဒီပနီပါဌ်၊ ပါရမီဒီပနီ၊ နိရုတ္တိဒီပနီနိဿယနံကျဉ်း၊ ပဋိစ္စသမုပ္ပါဒဒီပနီ၊ နိဗ္ဗာနဒီပနီ၊ ဘာဝနာဒီပနီ၊ ဗောဓိပက္ခိယဒီပနီ နှင့် အာနာပါနဒီပနီတို့ကိုပုံနှိပ်ခဲ့ပါသည်။*၂ အထူးသဖြင့် လယ်တီဆရာတော်ကြီး၏စာအုပ် တို့တွင် ပရမတ္ထသံခိပ်လင်္ကာတို့ကို စုပေါင်း၍ရိုက်နှိပ်ထားသော ပရမတ္ထသံခိပ်လက်စွဲစာအုပ် ငယ်ကိုကား အကြိမ်ပေါင်းများစွာ၊ အုပ်ရေပေါင်းထောင်သောင်းမက အများအပြားရိုက်နှိပ်ဖြန့်ချိ ခဲ့ရသဖြင့်*၃ လယ်တီဆရာတော်ကြီးကို ထိုခေတ်ထိုအခါက လှည်းနေလှေအောင်း မြင်းဖောင်း ပါမကျန် မသိသူမရှိလောက်အောင် ထင်ရှားကျော်ကြားတော်မူခဲ့ရပါသည်။

---

*၁ အရှင်ကေလာသ၏ အရှင်ဂန္ထသာရမဟာထေရ်မြတ်၏ မဟာထေရုပ္ပတ္တိ ပ္ပဒီပိကာနှင့် ဘုန်းတော်ဘွဲ့ဂါထာတရာပါဠ် နိဿယ။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ–၂၃၂)။

*၂ L.D. Barnett' A Catalogue of the Burmese Books in the British Museum. Oxford University Press, London, 1913. Page-116, 117 ၌ ဖော်ပြထားသောစာရင်းတို့ကို မှီငြမ်းပြု၍ရေးသားပါသည်။

*၃ ပရမတ္ထသံခိပ်လက်စွဲကို လယ်တီဆရာတော်ကြီးကိုယ်တော်တိုင်က 'သံခိပ်လေ့ကျက်သူတို့ အလွယ်တကူ ပေါ့ပေါ့ပါးပါး လက်တွင်ကိုင်စွဲ အမြဲထက်ကြပ်ပါရှိနိုင်ရန် မြော်တွေးတော်မူ၍သေချာစွာ သံပေါက်လင်္ကာတို့ကိုရေးသားကာ အဓိပ္ပာယ် မပါစေဘဲ ဆောင်ပုဒ်နှင့် သံပေါက်သက်သက်ကိုခွဲခြား၍ 'ပရမတ္ထသံခိပ်လက်စွဲ ဟူသောအမည်နှင့် စာအုပ်ငယ်ပြုလုပ် ရမည်'–ဟူ၍ အမိန့်တော်ရှိ၍ လယ်တီပဏ္ဍိတကိုယ်တော်က စီစဉ်ပုံနှိပ်ခဲ့ခြင်းဖြစ်သည်။ လယ်တီဆရာတော်ဘုရားကြီး၏ ပရမတ္ထသံခိပ်လက်စွဲနှင့် ဗုဒ္ဓထောမနာဂါထာပါဌ်အနက်။ ၁၂၉၂–ခုနှစ်။ မဟိန္ဒပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ–၃)။ ဤစာအုပ်ငယ်ကို သက္ကရာဇ်–၁၂၆၆/၆၇ (အေဒီ–၁၉၀၅)ခုနှစ်တွင် စတင်ရိုက်နှိပ်ရာ၊ သက္ကရာဇ် ၁၂၆၇/၆၈ (အေဒီ–၁၉၀၆)ခုနှစ်အတွင်း ၄–ကြိမ်တိုင်တိုင် ပုံနှိပ်ခဲ့ရသည်။ ibid, Page-119.

### ရန်ကုန်မြို့သို့ကြွတော်မူခြင်း

သက္ကရာဇ် ၁၂၆၇–ခုနှစ်၊ နတ်တော်လဆန်း–၈ (အေဒီ–၃၊ ဒီဇင်ဘာလ၊ ၁၉၀၅–ခုနှစ်) ရက်နေ့တွင် လယ်တီဆရာတော်ကြီးသည် ရန်ကုန်မြို့၊ ပုဇွန်တောင်ရပ်၊ ပွဲစားကြီးဦးဘိုးသာ(အေဒီ ၁၈၅၇–၁၉၃၃)၊ [*၁] ဦးအောင်ကြီး၊ [*၂] ဦးစံချိန် [*၃] တို့ပင့်လျှောက်ချက်အရ အထက်အညာဒေသမှ အောက်မြို့အောက်ရွာ ရန်ကုန်မြို့သို့ကြွတော်မူခဲ့ပြီး ခန္ဓာငါးပါးတရား, မဂ္ဂင်တရား, ဝိပဿနာတရား,အဘိဓမ္မာတရားတို့ကို ရောက်ရှိရာမြို့ရွာတို့တွင် ဟောကြားတော်မူပါသည်။

ဤသို့ဟောကြားသောတရားပွဲများတွင် တရားပွဲအတွင်း နွားသားရှောင်ကြဉ်ရန် မေတ္တာရပ်ခံတော်မူပါသဖြင့် အများပင် နွားသားရှောင်ကြဉ်ကြကာ အဘယဒါန ဇီဝိတဒါန သက်ဗီဝ အလှူကြီးကို ပေးတော်မူကြသည်။ အရက်သေစာ မသောက်မစားကြပါနှင့်ဟု မေတ္တာရပ်ခံတော်မူသောအခါတွင်လည်း အရက်သေစာမသောက်မစားပါဟု ဝန်ခံသူအများပင် ပေါ်ထွက်ခဲ့ပါသည်။ သံခိပ်ကိုကျက်မှတ်ကြရန် တိုက်တွန်းတော်မူသော သံခိပ်ကျက်လိုသူ များစွာပေါ်ထွန်းလာပြီး ပရမတ္ထသံခိပ်အသင်းတို့ကိုဖွဲ့စည်းတည်ထောင်ပေးတော်မူခဲ့ရပါသည်။ သို့ဖြင့် ရောက်ရှိရာဒေသမြို့ရွာတွင် လယ်တီဆရာတော်ကြီး၏စာပေကိုဖတ်ရှုပြီး ကြည်ညိုသူစာဖတ်ပရိသတ်များ၊ တရားနာရ၍ ကြည်ညိုသူ တရားနာပရိသတ်များသာမက နွားသားရှောင်ကြဉ်ရေးသမားတို့စုပေါင်းကာ နွားသားရှောင်ကြဉ်ရေးအသင်း၊ ပရမတ္ထသံခိပ်ကျက်သူတို့စုပေါင်းကာ ပရမတ္ထသံခိပ်အသင်း–စသည်ဖြင့် အသင်းအပင်းတို့အသီးသီးဖွဲ့စည်းကြသဖြင့် လယ်တီဆရာတော် ဩဝါဒခံ ဗိုလ်လူပရိသတ်များစွာဖြစ်ပေါ်လာလေသည်။ ဤအချိန်တွင် လယ်တီဆရာတော်ဘက်၌ ပရိသတ်တိုးပွားလာမှုကိုအကြောင်းပြု၍ အချို့သောပုဂ္ဂိုလ်တို့ကမစ္ဆေရဖြစ်ကြကာ လယ်တီဆရာတော်အားအတိုက်အခံပြုလိုသောပုဂ္ဂိုလ်များလည်း ပေါ်ထွန်းလာခဲ့သည်။

### အတိုက်အခံများ

လယ်တီဆရာတော်ကြီးသည် ရန်ကုန်မြို့၊ ရွှေတိဂုံစေတီတော်ကြီး၏ရင်ပြင်ပေါ်တွင် ရဟန်းပရိသတ်,လူပရိသတ်များစွာတို့အား တရားဟောပြောတော်မူစဉ်အခါက ထိုရွှေတိဂုံစေတီတော်၏ ထီးတော်အရိပ်အောက် ကျောင်းကန်အသီးသီးရှိ အချို့သောသံဃာတို့က ပရမတ္ထဒီပနီကျမ်း

---

[*၁] နောင်အခါ ဆာဘိုးသာ–ဟုထင်ရှားသည့်ပုဂ္ဂိုလ်ဖြစ်သည်။ အင်္ဂလိပ်အစိုးရပေးအပ်သော KIH ဘွဲ့ (၁၉၁၇–ခုနှစ်)၊ OBE (၁၉၁၀–ခုနှစ်)၊ CIE (၁၉၂၃–ခုနှစ်)၊ Sir ဘွဲ့ (၁၉၂၇–ခုနှစ်)–တို့ရရှိခဲ့သည်။ ဓမ္မဃောသကဦးမောင်မောင်၏ မြန်မာ့စီးပွားရေးပုဂ္ဂိုလ်ကျော်တစ်ဆယ့်နှစ်ဦး။ ရွှေပုရပိုက်စာပေ၊ ရန်ကုန်မြို့။ ၁၉၉၁–ခုနှစ်။ (စာမျက်နှာ ၁–၇)။

[*၂] ဆာဘိုးသာ၏ဖနီး ဒေါ်ပု၏မောင် ဖြစ်သည်။ ရန်ကုန်မြို့ ရွှေတိဂုံစေတီတော်ရှိ အနောက်ဘက်မုခ်ဦးအာရုံခံတန်ဆောင်းကို အေဒီ ၁၉၀၀–ပြည့်နှစ်တွင်ပြုပြင်သော ကောင်းမှုရှင်မှာ ဦးအောင်ကြီး–ဒေါ်စောညွန့်တို့ဖြစ်ကြပါသည်။ မောင်ဆုရှင်၏ မြတ်ဘုရားရွှေတိဂုံ။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၁၉၇၅–ခုနှစ်။ (စာမျက်နှာ–၂၅၉)။

[*၃] ဆာဘိုးသာ၏ဖနီး ဒေါ်ပု၏ အစ်ကိုဖြစ်ပြီး၊ ရန်ကုန်မြို့တွင် မိလိန္ဒပွဲရုံပိုင်ရှင်ဖြစ်၍ မိလိန္ဒဦးစံချိန်ဟု ခေါ်တွင်ခဲ့ကြသည်။ ရန်ကုန်မြို့ ရွှေတိဂုံစေတီတော်ရှိ ဆံတော်တွင်းအုတ်ပြာသာဒ်(အေဒီ ၁၈၇၉–ခုနှစ်)နှင့် ယခု ပြတိုက်ရှေ့ခံ အာရုံခံတန်ဆောင်းတို့မှာ ဦးစံချိန်ကောင်းမှုများဖြစ်ပါသည်။ မောင်ဆုရှင်၏ မြတ်ဘုရားရွှေတိဂုံ။ ၁၉၇၅–ခုနှစ်။ (စာမျက်နှာ–၂၇၀၊ ၂၈၄၊ ၂၄၅)။

နှင့်စပ်လျဉ်း၍ မကျေမနပ်ဖြစ်ကာ အစည်းအဝေးတစ်ခုပြုလုပ်ခဲ့ကြသည်။ ယင်းအစည်းအဝေး၏ ရည်ရွယ်ချက်မှာ လယ်တီဆရာတော်ကိုပင့်၍ ပရမတ္ထဒီပနီ၏ပယ်ချက်များ*၁ တစ်ခုစီတစ်ခုစီ မေးမြန်းလျှောက်ထားရန်ဖြစ်သည်။ ထိုအခါ ရွှေတိဂုံစေတီတော်အရှေ့မုခ် ဗင်္ဂလားကျောင်းတိုက်နေ ဗင်္ဂလားဆရာတော်ကြီးအရှင်ရဝိန္ဒက–

'ကိုယ်တော်တို့၊ ကိုယ်တော်တို့အစီအစဉ်အရ တစ်ခုစီတစ်ခုစီ မေးမြန်း၍ လယ်တီဆရာတော်ကလည်း တစ်ခုစီတစ်ခုစီ ကျေလည်အောင်ဖြေဆိုပေလိမ့်မည်။ ကိုယ်တော်တို့ရဲ့အမေးအမြန်းကုန်၍ လယ်တီဆရာတော်က တစ်ဖန်ပြန်၍ မေးမြန်းခဲ့လျှင် ဘယ်ကိုယ်တော်က တာဝန်ယူ၍ဖြေမှာလဲ?၊ ဖြေမည့်လူစွမ်းကောင်းပုဂ္ဂိုလ်ထွက်ကြစမ်းပါ'–ဟု မေးတော်မူသည်။

**ထိုအခါ ဖြေဆိုမည့်လူစွမ်းကောင်းပုဂ္ဂိုလ် တစ်ပါးမျှမထွက်ပေါ်ချေ။**

အချို့သောပုဂ္ဂိုလ်တို့က လယ်တီဆရာတော်၏ပရမတ္ထဒီပနီစာအုပ်ကို ဒါယကာများအား အဝယ်ခိုင်းပြီး တစ်အုပ်မကျန်မီးဖြင့်ရှို့ရန် အကြံပေးကြပြန်၏။ ယင်းအကြံပေးချက်ကို ဆရာတော်တစ်ပါးက အကြောင်းပြ၍ကန့်ကွက်ပြန်ပါသည်။ 'ကိုယ်တော်တို့က မီးရှို့ပြန်လျှင် နောက်ထပ်ပုံနှိပ်ဦးမှာပေါ့၊ မီးရှို့လို့မဆုံး ပုံနှိပ်လို့မဆုံး၊ ပုံနှိပ်တိုက်ကောင်းစားဖို့ ပြုလုပ်ပေးသကဲ့သို့ ဖြစ်နေပါလိမ့်မည်၊ ဒါကြောင့် ကန့်ကွက်သည်'ဟု မိန့်ကြားတော်မူပါသည်။

ထိုအစည်းအဝေး၌ ရောက်တတ်ရာရာမိန့်ကြားနေကြပါသဖြင့် ဗင်္ဂလားဆရာတော်ဘုရားကြီးက နိဂုံးချုပ်အနေဖြင့် မိန့်ကြားတော်မူသည်မှာ–

'ကိုယ်တော်တို့၊ လယ်တီဆရာတော်ကိုလည်းပင့်၍ မေးခွန်းမထုတ်ချင်ကြနှင့်၊ လယ်တီဋီကာကိုလည်း မီးမရှို့ချင်ကြနှင့်။ တတ်စွမ်းနိုင်ကြလို့ရှိလျှင် ဝိဘာဝနီဋီကာကျော်၌ လယ်တီဋီကာကပယ်သောအချက်များသည် ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာများနှင့်ကိုက်ညီ၍ မပယ်သင့်ကြောင်းကို ဝိဘာဝနီဋီကာကျော်ဘက်က ရှေ့နေလိုက်သောအနေမျိုးဖြင့် ဋီကာကျမ်းတစ်စောင်တစ်ဖွဲ့ ရေးသားတော်မူကြရန်ကိုသာ အားထုတ်တော်မူကြပါမည့်အကြောင်း တိုက်တွန်းပါသတည်း'– ဟု နိဂုံးချုပ်တော်မူ၍ အစည်းအဝေးကိုရုပ်သိမ်းတော်မူခဲ့ကြပါသည်။*၂

ထို့ပြင် ရန်ကုန်မြို့၌သီတင်းသုံးနေတော်မူစဉ် ပုဇွန်တောင်ရပ်၌နေထိုင်သော ပွဲစားကြီးဦးဘိုးသာတို့အစီအစဉ်ဖြင့် ပုဇွန်တောင် ညောင်တန်းရပ် သီတင်းကျွတ်လ တာဝတိံသာဆင်းတရားပွဲကြီးတွင် လယ်တီဆရာတော်ကြီးကိုပင့်၍ အဘိဓမ္မာဒေသနာတရားတော်ကို နာယူကြသည်။ ထိုတရားပွဲတွင် အချို့သောဒါယကာများက ပြောရဲဆိုရဲ သတ္တိပျတ္တိရှိသော ဆရာတော်အချို့ကိုပင့်၍ လယ်တီဆရာတော်ကြီးအား ပရမတ္ထဒီပနီနှင့်စပ်သောမေးခွန်းများ မေးလိမ့်

*၁ ဋီကာကျော်ကျမ်းလာအချက်တို့ကို ပယ်ခြင်းကိုဆိုလိုသည်။

*၂ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၅၂)။

မည်ဟု စကားသံသဲ့သဲ့ပြောနေကြရာ၊ တရားပွဲမစမီတွင် လယ်တီဆရာတော်ကြီးက ပဏာမ စကားပျိုးခန်း၌–

'ငါတို့ ယခု ရန်ကုန်မြို့သို့ရောက်ရှိလာသည်မှာ ဋီကာစကားပြောရန်လာသည် မဟုတ်၊ ရိုးရိုးတရားဟောပြောရန်နှင့် နွားသားမစားကြရန် ဟောပြောဖို့လာခဲ့ခြင်း ဖြစ်သည်။ ရန်ကုန်မြို့ရှိ အချို့သောဆရာတော်များက တို့ရေးတဲ့ ပရမတ္ထဒီပနီ ကျမ်းနှင့်စပ်လျဉ်း၍ အချေအတင်ပြောချင်ကြကြောင်း ငါတို့နားမှာကြားရတယ်ကွဲ့။

မြို့ပြင်ကြီးဆရာတော်ကတော့ ဤသို့အမိန့်ရှိဖူးသတဲ့။ 'ငါတို့ စာချပို့စဉ်အခါက ဝိဘာဝနီဋီကာကျော်၌ ပါဠိ,အဋ္ဌကထာ,ဋီကာတို့နှင့် မကိုက်ညီသောအချက်ပေါင်း ခြောက်ဆယ်, ခုနစ်ဆယ်ခန့်လောက်သာ တွေ့ရှိဖူးသည်။ ယခု အထက်အညာ တောကျောင်းဘုန်းကြီးတစ်ပါးက အချက်ပေါင်းနှစ်ရာကျော်တွေ့ရှိသည်' ဟု အမိန့် ရှိသတဲ့ မောင်ဘိုးသာရဲ့'–

ဟု မိန့်ကြားတော်မူသောအခါ မြို့ပြင်ကြီးဆရာတော်ဘုရားကြီးကပင်လျှင် ဤကျမ်းကို ထောက်ခံနေလျှင် ငါတို့ရဲ့အကြံအစည်များသည် အရေးအရာရောက်မည်မဟုတ်ဟု အားလျော့ ကာ နောက်ဆုတ်တော်မူခဲ့ကြကြောင်းသိရသည်။*၁

## ပုဇွန်တောင် ညောင်ကုန်းကျောင်းတိုက်

လယ်တီဆရာတော်ကြီး ရန်ကုန်မြို့သို့ရောက်ရှိတော်မူသောအခါ ဆာဘိုးသာမိသားစုက ဆရာတော်ကြီးအား မိမိတို့နေထိုင်သော ပုဇွန်တောင်အရှေ့ပိုင်းရှိ ညောင်ကုန်းကျောင်းတိုက် အတွင်း ယာယီကျောင်းတစ်ဆောင်ဆောက်၍ သီတင်းသုံးစေပါသည်။ ထိုကျောင်းအတွင်း၌ ဆာဘိုးသာ၏ယောက္ခမ ဦးပိုက်၊ ဒေါ်သူ၏ကျောင်း၊ ဆာဘိုးသာ၏ယောက်ဖဦးစံချိန်၏ကျောင်း– စသည် ဆောက်လုပ်ပြီးစကျောင်းသစ်နှစ်ဆောင်ရှိခြားသော်လည်း လယ်တီဆရာတော်သည် တိုက်ကျောင်းကိုနှစ်သက်တော်မမူမှန်းသိကြသည့်အတွက် ဦးဇရေးတိုက်ကျောင်းသစ်အနီး မြေကွက်လပ်တွင် ယာယီကျောင်းဆောက်လုပ်ပေးရခြင်းဖြစ်သည်။*၂

သို့လျှင် လယ်တီဆရာတော်ကြီးသည် ညောင်ကုန်းတိုက်အတွင်း၌ အလှူအတန်းပွဲစသည် ရှိ၍ လူသူများလာလျှင် ကျောင်းကြီးကျောင်းကောင်းများရှိပါလျက် လူသူကင်းသော အသား ကျောင်းကလေး၌ တစ်ပါးတည်းစာကြည့်ကာ သီတင်းသုံးတော်မူလေ့ရှိသည်ကို အချို့သော ပုဂ္ဂိုလ်တို့က 'လယ်တီဆရာတော်ဟာ တို့နှင့်ရင်မဆိုင်ရဲ၍ ရှောင်နေကြောင်း' ပြောဆိုကြသည်။ ဤအကြောင်းကို လယ်တီဆရာတော်ကြီးကြားသိလျှင် 'ဟုတ်ကဲ့လား'ဟု သားရေနွယ်ပိုင်းကို

*၁ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၅၄)။

*၂ ရန်ကုန်မြို့ ပုဇွန်တောင် ညောင်ကုန်းကျောင်းတိုက်ဆရာတော် ဦးပညာသီဟ (၆၊ ၃၊ ၁၉၈၃)နေ့ မိန့်ကြားတော်မူချက် ဖြစ်သည်။ နောင်အခါ ညောင်ကုန်းကျောင်းတိုက်ကြီးကို လယ်တီဆရာတော်ကြီးအား လှူဒါန်းခဲ့ကြပါသည်။ ထိုစဉ်က လယ်တီဆရာတော်ကြီးသီတင်းသုံးတော်မူခဲ့သော တဲကျောင်းကြီးနေရာတွင် နှစ်ထပ်တိုက်ကျောင်းကလေးဆောက်ခဲ့ပြီး၊ လယ်တီစံကျောင်းဟု ကမ္ပည်းတင်ခဲ့ကြသည်။



ရန်ကုန်မြို့ပုဇွန်တောင်ရပ်ရှိ လယ်တီစံကျောင်း(ညောင်ကုန်းတိုက်)

ရွှေတောင်မြို့ရှိ လယ်တီပိဋကတ်တိုက်

ခါ၍ ကျောင်းရှိရာကြွလာပြီး မေးလိုသောကိုယ်တော်တို့ မေးနိုင်ကြောင်းလျှောက်ထားလျှင် မေးခွန်းထုတ်ပုဂ္ဂိုလ်တို့ ရှောင်၍ကြွသွားကြကြောင်းသိရသည်။*၁

ရွှေတောင်မြို့သို့

သက္ကရာဇ် ၁၂၆၇–ခုနှစ်၊ ပြာသိုလဆန်း ၁၅–ရက် (အေဒီ–၈၊ ဇန်နဝါရီလ၊ ၁၉၀၆–ခုနှစ်) တွင် ပြည်ခရိုင် ရွှေတောင်မြို့မှ တိုက်သူကြီးမောင်အောင်လှ၊ ဆရာမောင်သာမောင်၊ မောင်စံမြ စသည့်ဒါယကာများ၏ပင့်ဖိတ်လျှောက်ထားချက်အရ ရွှေတောင်မြို့သို့ လယ်တီပဏ္ဍိတကိုယ်တော် စသောတပည့်သံဃာများ, လူဥပါသကာတို့ခြံရံလျက် လယ်တီဆရာတော်ကြီးကြွတော်မူခဲ့ ပါသည်။*၂ ရွှေတောင်မြို့သည် လယ်တီဆရာတော်ဘုရား၏သာသနာပြုလုပ်ငန်းများစွာတို့ကို အထောက်အကူပြုခဲ့သောမြို့ဖြစ်ပါသည်။ လယ်တီဆရာတော်ကြီးသည် ရွှေတောင်မြို့တွင် တရားဒေသနာများဟောကြား၍ ပရမတ္ထသံခိပ်အသင်း၊ ပဋ္ဌိစ္စသမုပ္ပါဒ်အသင်းတို့ကို ဖွဲ့စည်းတည် ထောင်ပေးတော်မူခဲ့ပါသည်။

ပြည်မြို့သို့

လယ်တီဆရာတော်ကြီးသည် ရွှေတောင်မြို့မှတစ်ဆင့် ပြည်မြို့သို့ကြွတော်မူပြီး ရွှေဆံတော် ဘုရားအနောက်ဘက်စောင်းတန်းထိပ်ရှိ ကြေးနီကျောင်း*၃ တွင် ခေတ္တသီတင်းသုံးနေတော် မူပါသည်။ ပြည်မြို့တွင် တရားပွဲများကျင်းပပြုလုပ်ရာ ပြည်မြို့နေ စီးပွားရေးအမြင်သန်သော မောင်ဘညွန့်*၄ အမည်ရှိလူငယ်တစ်ဦးသည် ဆရာတော်ကြီးထံဆည်းကပ်လာပါသည်။ မောင်ဘညွန့်သည် မူလကလခစားဝန်ထမ်းဖြစ်ခဲ့ပြီး ကိုယ်ပိုင်လုပ်ငန်းတိုးချဲ့လုပ်ကိုင်ရန်၊ အထူး သဖြင့် ထိုခေတ်ကစီးပွားရေးဘက်တွင်လာဘ်မြင်စွာ တွင်တွင်ကျယ်ကျယ်လုပ်ကိုင်နေကြသည့် ရိုး (Row) ကုမ္ပဏီ၊ ဝိုက်တဝေး (White Way) ကုမ္ပဏီ၊ ဝပ်ဆင် (Watson) ကုမ္ပဏီတို့နှင့်အပြိုင် မြန်မာပိုင်ကုမ္ပဏီကုန်တိုက်ကြီးကို ဖွင့်လှစ်ရောင်းချလိုပါကြောင်း ဆရာတော်ကြီးအားလျှောက်ထား ရာ ဆရာတော်ကြီးက–

'မောင်ဘညွန့်–ဘာပဲလုပ်လုပ် အလုပ်လုပ်တယ်ဆိုရင် မှားတတ်တာပဲကွယ့်၊ ဒါကြောင့် ဘာပဲလုပ်လုပ် မလုပ်ခင်မှာ အမှားမရှိအောင် သေသေချာချာစဉ်းစား

*၁ မုံရွာမြို့၊ မြို့မရွှေဂူတိုက်ဆရာတော်ကြီး မိန့်တော်မူချက်မှဖြစ်သည်။

*၂ လယ်တီပဏ္ဍိတ၏ ဒွိမူလဒီပနီကျမ်း။ ပစ္စယမဏ္ဍရီကျမ်း။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၇–ခုနှစ်။ (စာမျက်နှာ– ၁၈၃)။

*၃ ကြေးနီကျောင်းကို သက္ကရာဇ်–၁၂၀၂ (အေဒီ–၁၈၄၀)ခုနှစ်တွင် ဆရာတော်ဦးပုညအုပ်ချုပ်ခဲ့ပါသည်။ သက္ကရာဇ်–၁၂၁၄ (အေဒီ–၁၈၅၂)ခုနှစ်တွင် ပြည်မြို့သည် အင်္ဂလိပ်လက်အောက်သို့ကျရောက်ပြီး၊ အင်္ဂလိပ်တို့က မြို့တွင်းမှ မင်းကြီးတောင် သို့သွားသောဖြတ်လမ်းကိုဖောက်လုပ်ရာမှ ရေိယာမြေ ၃၃–ကေကျယ်ဝန်းသော ကြေးနီကျောင်းကြီးမှာ နှစ်ပိုင်းဖြစ်သွား ပြီး အထက်ကြေးနီကျောင်းနှင့် အောက်ကြေးနီကျောင်း–ဟူ၍ဖြစ်သည်။ အောက်ကြေးနီကျောင်းနေရာသည် ယခု ဇောတိကာရုံပါဠိတက္ကသိုလ်ကျောင်းတိုက်ကြီး တည်ရှိသောနေရာဖြစ်သည်။

*၄ နောင်အခါ မြန်မာအဆွေသူဌေး၊ ဒဂုန်မဂ္ဂဇင်းပိုင်ရှင် အေဝမ်းရပ်ရှင်ကုမ္ပဏီသူဌေးဦးဘညွန့်အဖြစ် ထင်ရှားခဲ့သည်။

ပြီး တိုင်ပင်ကွယ့်၊ ပြီးရင်ဆုံးဖြတ်။ တိုင်ပင်ဆိုရာမှာလဲ သိပ်မတိုင်ပင်နဲ့၊ ခရီးဖင့်တတ်တယ်။ အေး–အားလုံးစဉ်းစားတိုင်ပင်ပြီး စဉ်းစားပြီးပြီဆိုမှ နောက်မဆုတ်နဲ့တော့ဆက်လုပ်၊ နောက်တော့လုပ်ရင်းနဲ့ အမှန်ကိုရောက်သွားလိမ့်မယ်။

တို့ ပရမတ္ထဒီပနီရေးတုန်းကလဲ စဉ်းစားတယ်၊ ပြီးတော့ ရေးလိုက်တာပဲ။ ဒါကြောင့် ရေးဖြစ်သွားတာ။ သိပ်စဉ်းစားတိုင်ပင်နေရင် ရေးဖြစ်မှာမဟုတ်ဘူးကွယ့်'–ဟူ၍ မိန့်တော်မူပါသည်။

ဦးဘညွန့်သည် ဆရာတော်ကြီး၏ဩဝါဒအတိုင်း ပြည်မြို့တွင် လူမျိုးခြားတို့၏ကုန်တိုက်တို့နှင့်ပြိုင်ကာ မြန်မာအဆွေကုန်တိုက်ကို အောင်မြင်စွာဖွင့်လှစ်နိုင်ခဲ့သည်။*၁ ဆရာတော်ကြီးအားလည်း သက်ထက်ဆုံးဆရာသမားအဖြစ် ကိုးကွယ်ရန်ဆန္ဒဖြစ်ခဲ့သည်။ ယခုလာမည့် ဝါဆိုလတွင် ပြည်မြို့သို့ကြွရောက်၍ဝါကပ်တော်မူပါရန်လျှောက်ထားသည်။ လယ်တီဆရာတော်ကြီး ပြည်၌ဝါကပ်တော်မူပါလျှင် မိမိ၏သားတို့ကို ရှင်ပြုမည်ဟု ကြံရွယ်ခဲ့ပါသည်။

ဗုဒ္ဓဘာသာမြန်မာသာသနဟိတကာရီအသင်း

မန္တလေးမြို့တွင် ပညာဝန်ဦးကျော်ရန်နှင့်တွဲဖက်၍ ဗုဒ္ဓဘာသာသာသနာပြုအသင်းကိုတည်ထောင်ခဲ့သူ ပညာရုံးစာရေးကြီးဦးသော်သည် အေဒီ ၁၉၀၆–ခုနှစ်တွင် ရန်ကုန်မြို့သို့ရောက်ရှိခဲ့ပြီးနောက် ရန်ကုန်မြို့တွင်လည်း ရန်ကုန်မြို့၏ မြို့မျက်နှာဖုံး မင်းကြီးကတော်ဒေါ်မြမေကို ရှေ့ဆောင်ရှေ့ရွက်ပြုကာ ရန်ကုန်မြို့၊ ရွှေတိဂုံဘုရားလမ်း၊ အမှတ်(၁)တွင် ဗုဒ္ဓဘာသာမြန်မာသာသနဟိတကာရီအသင်း (Burmese Buddhist National Association) ကို ၁၂၆၇–ခုနှစ်၊ တပို့တွဲလဆန်း–၈ (အေဒီ –၃၁၊ ဇန်နဝါရီလ၊ ၁၉၀၆–ခုနှစ်) တွင် ဖွဲ့စည်းတည်ထောင်ခဲ့ပါသည်။

ဤအဖွဲ့အစည်းတွင် အိန္ဒိယငွေစာရင်းချုပ်မင်းကြီးဦးလှအောင်၏ဇနီး မင်းကြီးကတော်ဒေါ်မြမေ၊*၂ ဆရာဝန်မောင်ဘိုးလှ၊ ပညာရုံးစာရေးကြီးမောင်သော်–တို့ပါဝင်ကြသည်။ အဖွဲ့၏ `ငန်းတို့တွင် သာသနာအတွက်အကျိုးများမည့်ပိဋကတ်စာပေဆိုင်ရာစာအုပ်တို့ကို ပုံနှိပ်ရန် သည်။ ဤကိစ္စနှင့်စပ်၍ အသင်းဝင်စာရေးကြီးမောင်သော်က–

'ရှေးအထက်ကျော်ကာလ သာသနာ့ဝင်အမျိုးသားတို့ တရားရကြောင်းကောင်းစွာရည်သန်လျှောက်ထားချက်အရ လင်္ကာပေသလ သိက္ခာကာမ သီလဝန္တ ပိဋကတ္တယဆေက ဂဏာစရိယ ဂဏပါမောက္ခ ပေါက်ပြကျော်ထင် အရှည်ဝါသီ လယ်တီတောရဆရာတော်ဘုရားကြီးသည် ပိဋကတ်တော်ကို မသင်ကြားဖူးသူတို့

*၁ နောင်အခါ ရန်ကုန်မြို့သို့ပင်ရွှေ့ပြောင်း၍ မြန်မာအဆွေကုန်တိုက်ကြီးကို ခမ်းနားစွာဖွင့်လှစ်ခဲ့ပြန်သည်။

*၂ စစ်ကဲမောင်ထော်လေးဟုထင်ရှားသော မွန်အမျိုးသားစစ်ကဲကြီး၏ သမီးထွေးဖြစ်ပြီး ၁၈၇၂–ခုနှစ်တွင်ဖွားမြင်ခဲ့သည်။ အရွယ်ရောက်သော် ၁၉၀၆–ခုနှစ်တွင် မြန်မာလူမျိုးထဲမှ ပထမဦးဆုံး အိန္ဒိယနိုင်ငံ ငွေစာရင်းစစ်မင်းကြီးဦးလှအောင်နှင့် လက်ထပ်ခဲ့သည်။ ထိုအခါမှစ၍ မင်းကြီးကတော်ဒေါ်မြမေ၊ မစ္စစ်လှအောင်–စသည်ဖြင့်ထင်ရှားခဲ့သူဖြစ်သည်။ ထိုခေတ်က မင်းပေါက်စိုးပေါက် မည်သည့်မင်းပွဲစိုးပွဲမဆို ရှေ့ကနေခဲ့သူဖြစ်သည်။ အရှင်အာနန္ဒမေတ္တေယျ၏ ပစ္စည်းလေးပါးဒါယိကာမကြီးလည်းဖြစ်သည်။ စောမုံညင်း၏ ဗမာအမျိုးသမီး။ သီဟပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ ၁၆၂–၁၆၄)။


ဦးမေအောင်


ဦးရွှေဖံအောင်


မင်းကြီးကတော်ဒေါ်မြမေ

လဋ္ဌိပေသလ၊သီလဝဍ္ဍ၊ပိဋကတ္တယဆောက၊ပိဋ
ကတ္တယဗိသာရဒ၊အာသဘမြောက် ပြမ်းကြီးဆောက်၍၊
ထက်အောက်ကြေညာ၊သထင်းတော်ဖြာဗှ
သောရုံရွှာအရည ဝါသီမဟာထေရ်
ဖြစ်တော်မူသော
(လယ်တီဆရာတော်ဘုရားကြီး)
သည်၊အသီးသီးသောပါဠိအဋ္ဌကထာဋီကာ
လမ်းမှန်၊သင်္ဂါယနာဝင်ကျမ်းဂန်တို့နှင့်၊မှန်မှန်ကြီးညီ
ညွှတ်စေပြီးလျှင်၊ ငရဲမီးဗိဇ၊ သက္ကာယ ဒိဋ္ဌိမြစ်ကို၊ နုတ်ပစ်ကြစေ
နိုင်ရန်၊ရည်သန်၍လုံးထား၍၊ရေးသားစီရင်တော်မူအပ်သော

# ဥတ္တမပုရိသဒီပနီကျမ်း။

ကို

ရန်ကုန်မြို့၊ဗုဒ္ဓဘာသာ၊မြန်မာသာသနဟိတကာရီအသင်း

က

ပုံနှိပ်လုပ်ဆောင်ပါသည်။

ပဌမနှိပ်ခြင်း–စာအုပ်ရေ–၂၀၀၀။



ရန်ကုန်မြို့၊
ဆူးလေဘုရားလမ်း၊ဟံသာဝတီသတင်းစာတိုက်၊
၁၉၀၇–ခုနှစ်။

အတိုး၄–၅။

ဤကျမ်းကိုကြည့်ရှုလေ့လာရုံမျှနှင့် သင်ကြားဖူးသူတို့နည်းတူ လွယ်ကူမှတ်ပိုက်နှလုံးခိုက်၍ သိုက်မြိုက်စွာ အသုံးပြုနိုင်စေခြင်းငှာ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာတို့မှ ထုတ်နုတ်၍ မြန်မာဘာသာဖြင့် စီရင်ရေးသားတော်မူအပ်သော ဥတ္တမပုရိသဒီပနီကျမ်းကို ၎င်းအသင်းကပုံနှိပ်ထုတ်ဝေရန် လှူဒါန်းလွှဲအပ်ကြောင်း'–

ပြောကြား၍ လွှဲအပ်ရာ၊ လယ်တီဆရာတော်ကြီးကလည်း သဘောတူနှစ်သက်၍ ဥတ္တမပုရိသဒီပနီကို အသင်းက ၁၉၀၇–ခုနှစ်တွင် ပဌမနှိပ်ခြင်းအဖြစ် အုပ်–၂၀၀၀ ကို ရန်ကုန်မြို့ ဟံသာဝတီသတင်းစာတိုက်၌အပ်နှံပြီး ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။*[၁]

မော်လမြိုင်သို့

သက္ကရာဇ် ၁၂၆၇–ခုနှစ် နှစ်မကုန်မီ တပေါင်းလ (အေဒီ–၁၉၊ မတ်လ၊ ၁၉၀၆–ခုနှစ်)တွင် အောက်ပြည်အောက်ရွာ သထုံ၊ မော်လမြိုင်စသည့်ဒေသများသည် ပူပြင်းမှုကင်းပြီး ရာသီဥတုမျှတကာ အေးချမ်းသာယာရွှန်းစိုလှသည်ဖြစ်၍ လယ်တီဆရာတော်ကြီးသည် နောက်ပါတပည့်သံဃာတို့ခြံရံလျက် ရန်ကုန်မြို့မှတစ်ဆင့် ပင်လယ်ရေလမ်းခရီးဖြင့် မီးသင်္ဘောကိုစီးနင်းကြွလာတော်မူရာ မော်လမြိုင်မြို့သို့ရောက်ရှိတော်မူပါသည်။*[၂]

မော်လမြိုင်မြို့သို့ရောက်ရှိလျှင် သူဌေးဦးတိုးလုံ*[၃] အမှူးပြုသော ဦးသာညွှန်း၊*[၄] ပြာသာဒ်တကာ ဦးညို၊*[၅] မြူနီစီပယ်အဖွဲ့ဒုတိယဥက္ကဋ္ဌ ဦးခို၊ သမာဓိတရားသူကြီး ဦးဖိုးခင်၊*[၆] သမာဓိတရားသူကြီး ဦးပန်၊ ကုန်သည်ကြီး ဦးဟန်၊ ဦးထွန်းလှ၊ ဦးနီ၊ ဦးရွှေဖြိုးတို့က ဆိပ်ကမ်းမှဆီးကြိုပင့်ဆောင်ကာ ဒိုင်းဝန်ကွင်းရပ် ဆင်ဖြူကျောင်းကြီးဝင်းအတွင်း ယာယီတဲကျောင်းကြီး၌ ခေတ္တသီတင်းသုံးနေတော်မူခဲ့ပါသည်။

လယ်တီဆရာတော်ကြီးသည် မော်လမြိုင်မြို့သို့ ပထမဦးရောက်ရှိတော်မူသည်ဖြစ်၍ ပရမတ္ထသံခိပ်လက်စွဲစာအုပ်များဝေငှကာ ကျက်မှတ်ကြရန်တိုက်တွန်းတော်မူပြီး နောက်တစ်နေ့ညတွင် ဒိုင်းဝန်ကွင်း ဦးသာညွှန်းတို့အိမ်အနီး ကွက်လပ်ကြီးရှိ တရားဟောမဏ္ဍပ်၌ တရားဟောကြား

---

*၁ ဥတ္တမပုရိသဒီပနီကို ၁၉၀၆–ခုနှစ်ကပင် ရန်ကုန်မြို့ ဟံသာဝတီသတင်းစာတိုက်က ဦးသော်ထံမှတောင်းယူ၍ တစ်ကြိမ်ရိုက်နှိပ်ခဲ့ပြီးဖြစ်ပါသည်။ ထိုသို့ရိုက်နှိပ်ခဲ့သောမူကို ဦးသော်က ဗုဒ္ဓဘာသာသာသနဟိတကာရီအသင်းသို့ လှူဒါန်းခြင်းဖြစ်သည်။ ဗုဒ္ဓဘာသာသာသနဟိတကာရီအသင်းကလည်း မိမိတို့အသင်းအနေဖြင့် ဦးစွာရိုက်နှိပ်ခြင်းဖြစ်၍ ဤဒုတိယအကြိမ်ရိုက်နှိပ်ခြင်းကိုပင် 'ပထမနှိပ်'ဟုတပ်ပြီး ၁၉၀၇–ခုနှစ်တွင်ရိုက်နှိပ်ခဲ့ခြင်းဖြစ်ပါသည်။

*၂ လယ်တီပဏ္ဍိတ၏ သမ္မာဒိဋ္ဌိဒီပနီကျမ်း။ ၁၂၉၂–ခုနှစ်။ (စာမျက်နှာ–၁၅၂)။

*၃ သက္ကရာဇ်–၁၂၂၉ (အေဒီ ၁၈၆၇–ခုနှစ်)၌ ရှမ်းပြည်တောင်ပိုင်း အင်းလေးတွင်ဖွားမြင်၍၊ သက္ကရာဇ်–၁၂၅၃ (အေဒီ ၁၈၉၁–ခုနှစ်)၌ မော်လမြိုင်သို့ရောက်ရှိပြီး သစ်လုပ်ငန်းလုပ်ကိုင်၍ချမ်းသာလာသူဖြစ်သည်။

*၄ နောင် နိုင်ငံရေးလောက၌ထင်ရှားသော သမ္မတဦးချစ်လှိုင်၏ ဖခင်ဖြစ်သည်။ ဦးဘသန်း၏ မော်လမြိုင်။ ဦးစိန်ရုံအင်ဆန်း ပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၃၁၁–ခုနှစ်။ (စာမျက်နှာ–၁၁၇–၁၂၀)။

*၅ ဦးတိုးလုံ၏ မယားညီအစ်ကိုတော်သူဖြစ်သည်။

*၆ နောင် မြန်မာတိုင်းသတင်းစာတိုက်ပိုင်ရှင်ဖြစ်သည်။

တော်မူပါသည်။ နောက်တစ်ရက်တွင် မော်လမြိုင်မြို့ ဈေးချိုရပ်မှ တောင်ဝိုင်းဘက်သို့သွားသော လမ်းဆုံရှိ တော်ကူးကျောင်းအတွင်းရှိ စကြံကျောင်းကြီးတွင် သီတင်းသုံးတော်မူခဲ့ပါသည်။ ထို့နောက် ဈေးချို ဆန်တန်းရပ်တွင် ညတရားပွဲကျင်းပတော်မူပါသည်။

လယ်တီဆရာတော်ကြီးသည် မော်လမြိုင်မြို့၌သီတင်းသုံးနေတော်မူစဉ်အတွင်း ကျိုက်သံလန်စေတီတော်၊ မဟာမုနိမြတ်စွာဘုရားတို့ကိုဖူးမြော်ပြီး ဆဒ္ဒန်ဂူ၊ ခရုံဂူနှင့် ကျိုက္ခမီ ရေလယ်ဘုရားတို့ကိုပါ ကြွရောက်ဖူးမြော်တော်မူခဲ့ပါသည်။ ထို့ပြင် မော်လမြိုင်မြို့မှ ရေလမ်း ၉–မိုင်ခန့်ဝေးကွာသော ကတိုးကော့နှပ်ရွာကလေးသို့ကြွတော်မူပါသည်။

**ကတိုးကော့နှပ်**

ကတိုးကော့နှပ်သည် ရွာဟုဆိုသော်လည်း သံလွင်မြစ်ဝ၌တည်ရှိကာ သစ်ကုန်သည်ကြီး ဦးနာအောက်(အေဒီ ၁၈၃၂–၁၉၁၃)၊ *၁ ဦးမွန်ထော်(အေဒီ ? )၊ *၂ ဦးထော်အာ(အေဒီ ၁၈၃၁–၁၈၉၆)*၃ နှင့် ဦးထွန်းအောင်(အေဒီ ၁၈၄၁–၁၉၀၅)*၄–ဟူသော မွန်သူဌေးကြီးလေးဦးတို့စုပေါင်း တည်ထားသောရွာကလေးဖြစ်သည်။ ဤသူဌေးကြီးလေးဦးတို့သည် ကော့နှပ်ရွာကလေးတွင် ကော့နှပ်တိုက်ကျောင်း၊ *၅ နှစ်ကျိပ်ရှစ်ဆူဝတ်ဆောင်၊ သိမ်ကြီး၊ ဆင်စွယ်ဝတ်–စသည်တို့ကို ဆောက်လုပ်ခဲ့ကြသည်။

လယ်တီဆရာတော်ကြီးသည် ကော့နှပ်ရွာသို့ ကော့နှပ်ရွာဘုရားဒါယကာဦးနာအောက် နှင့် ဦးထွန်းအောင်တို့ကပင့်ဆောင်သည့်အတွက် ကြွတော်မူရခြင်းဖြစ်သည်။ ကော့နှပ်သို့ရောက်သော် ဦးနာအောက်တို့ကောင်းမှုဖြစ်သော တိုက်တာအဆောက်အအုံတို့ကို လှည့်လည်ကြည့်ရှုတော်မူပြီး အတူလိုက်ပါလာသောနောက်ပါသံဃာတို့နှင့် ဥပါသကာပရိသတ်တို့အား လယ်တီဆရာတော်ကြီးက–

> 'သင်တို့သည် အနာထပိဏ်သူဌေးကြီးဆောက်လှူသော ဇေတဝန်ကျောင်းကြီးကိုမမြင်ဖူးကြပါလျှင် ဤကျောင်းကြီး, သိမ်ကြီးတို့ကို ကြည့်ကြပါကုန်လော့။ ဤအဆောက်အအုံကြီးများသည် ဇေတဝန်ကျောင်းတော်ကြီးကို အမှတ်ရအောင် သွေးဆောင်ဘိသကဲ့သို့ဖြစ်ပေ၏' –ဟူ၍ မိန့်ဆိုတော်မူပါသည်။ *၆

---

*၁ မြန်မာပြည်၌ ပထမဦး မီးသင်္ဘောများစွာပိုင်ဆိုင်သူနှင့် သစ်လုပ်ငန်းရှင်ကြီးဖြစ်သည်။

*၂ မင်းတုန်းမင်း၏ နေမျိုးရာသခ်ယာကမ္ပည်းပါ နဖူးစည်းရွှေပြားရ ရန်ကုန်မြို့ ရွှေတိဂုံစေတီတော်၏ နောင်တော်ကြီး ဘုရားထီးဒါယကာဖြစ်သည်။ ဦးဘသန်း၏ မော်လမြိုင်။ ၁၃၁၁–ခုနှစ်။ (စာမျက်နှာ ၈၆–၉၄)။

*၃ ရွှေအိုးဘရားသား ဦးရွှေအိုး၏ဖခင်ဖြစ်သည်။

*၄ ထိုင်းဘုရင့်ဘွဲ့တံဆိပ်ရ သစ်တောအုပ်ကြီးဖြစ်သည်။

*၅ ထိုကျောင်းတွင် မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံတိုက်၌ပညာသင်နေသော မွန်ဘုန်းကြီးဦးပညာဓမ္မကိုပင့်၍ ကျောင်းတင် ခဲ့သည်။

*၆ ဤအချက်ကို လယ်တီဦးဝဏ္ဏိတ (ဆရာကြီးဦးလှတင်) ပြောပြချက်ဖြစ်ပါသည်။

## သထုံမြို့သို့

သက္ကရာဇ် ၁၂၆၇-ခုနှစ် နှောင်းတန်ခူးလဆုတ် ၂-ရက် (အေဒီ-၉၊ ဧပြီလ၊ ၁၉၀၆-ခုနှစ်) တွင် လယ်တီဆရာတော်ကြီးသည် မော်လမြိုင်မြို့မှ သထုံမြို့သို့ မီးသင်္ဘောဖြင့်ကြွတော်မူပါသည်။ သထုံမြို့၌သီတင်းသုံးနေတော်မူစဉ် ရွှေစာရံစေတီတော်ကိုဖူးမြော်ပြီး ဝတ်တန်ဆောင်းတို့တွင် တရားဒေသနာဟောကြားတော်မူခဲ့ပါသည်။*၁ သထုံမြို့၌ ဆရာတော်ကြီးသီတင်းသုံးနေစဉ်မှာပင် ၁၂၆၇-ခုနှစ်ကုန်ဟောင်း၍ ၁၂၆၈-ခုနှစ် နှစ်သစ်သို့ပြောင်းရွှေ့ခဲ့ပါသည်။ ဆရာတော်ကြီးနောက်တော်မှပါလာသော လယ်တီပဏ္ဍိတကိုယ်တော်သည် ရေးသားဆဲဖြစ်သော လယ်တီဆရာတော်ကြီး၏သမ္မာဒိဋ္ဌိဒီပနီပါဌ်ကို မြန်မာဘာသာပြန်ဆိုရာ ဤအချိန်တွင် (အေဒီ-၁၅၊ ဧပြီလ၊ ၁၉၀၆-ခုနှစ်) ရေးသားပြီးစီးအောင်မြင်ခဲ့ပါသည်။ လယ်တီဆရာတော်ကြီးသည် သထုံမြို့၌ ခေတ္တသီတင်းသုံးနေတော်မူပြီးနောက် ရန်ကုန်မြို့သို့ပြန်လည်ကြွတော်မူခဲ့ပါသည်။

## ကေစတ္တာလီသမဝါဆိုတော်မူခြင်း

လယ်တီဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၆၈-ခုနှစ် ဝါဦးလ (အေဒီ ၁၉၀၆-ခုနှစ်၊ ဇွန်) တွင် မြန်မာအဆွေကုမ္ပဏီပိုင်ရှင်သူဌေးဦးဘညွန့်၊ ဒေါ်ငြိမ်းရှင်တို့၏သားရှင်ပြုအလှူပင့်ဆောင်သည့်အတွက် ပြည်မြို့သို့ကြွတော်မူပါသည်။*၂ ပြည်မြို့သို့ရောက်လျှင် ပြည်မြို့ ရွှေဆံတော်ဘုရားအနောက်ဘက်စောင်းတန်းထိပ်ရှိ အထက်ကြေးနီကျောင်းအနီး၌ ယာယီတဲကျောင်း၌ သီတင်းသုံးတော်မူပါသည်။*၃ ဝါမဆိုမီကာလအတွင်း ပြည်မြို့ ရွှေဆံတော်ဘုရားရင်ပြင်တွင် တရားပွဲကြီးများကျင်းပပြုလုပ်တော်မူခဲ့သည်။ ပြည်မြို့ရှိ မြို့မိမြို့ဖတို့ဦးဆောင်ကြကာ ပရမတ္ထသံခိပ်အသင်း၊ ပဋိစ္စသမုပ္ပါဒ်အသင်း-စသည်ဖြင့် အသင်းများဖွဲ့စည်းကြသည်။ သံခိပ်ကျက်မှတ်ကြသည်။ အမဲသားရှောင်သူလည်း အများအပြားရှိသည်။

ဝါတွင်းကာလ (အေဒီ ၁၉၀၆-ခုနှစ်၊ ဇူလိုင်)သို့ရောက်သောအခါ လယ်တီဆရာတော်ကြီးသည် ပြည်မြို့(ယခု-မာရ်အောင်ရပ်ကွက်)ရှိ လယ်တီကုန်းဝိပဿနာတောရအတွင်း၌ တောင်ကမူတစ်ခုတွင် ဂူသဖွယ်ဖြစ်နေသောဌာန၌ ဂူဝ*၄ စကြံကျောင်းဆောက်လုပ်စေပြီး၊ ထိုဂူဝစကြံကျောင်းမှာပင် (၄၁)ကြိမ်မြောက် ကေစတ္တာလီသမဝါကိုကပ်ဆိုတော်မူပါသည်။

---

*၁ လယ်တီပဏ္ဍိတ၏ သမ္မာဒိဋ္ဌိဒီပနီကျမ်း။ ၁၂၇၂-ခုနှစ်။ (စာမျက်နှာ-၅၂)။

*၂ ထိုစဉ်က အေဝမ်းဦးတင်နွယ်ပါဝင်၍ ရှင်ပြုရကြောင်းသိရသည်။ ဝေမ်းဦးတင်နွယ်၏ လယ်တီပဏ္ဍိတဘဝဖြစ်စဉ်။ လယ်တီပဏ္ဍိတ၊ မြန်စာပြန်နှိ၊ ရန်ကုန်မြို့။ ၁၉၆၅-ခုနှစ်။ (စာမျက်နှာ-၁၈)။

*၃ ယင်းအထက်ကြေးနီကျောင်းနေရာ အောက်ခြေဘက်၌ လယ်တီဆရာတော်ကြီး ယာယီတဲကြီးထိုး၍ သီတင်းသုံးတော်မူခဲ့သောနေရာတွင် နောင်အခါ သူဌေးဦးဘညွန့်က အုတ်တိုက်ဆောက်၍ ရုပ်ပွားဆင်းတုများစွာဖြင့်ပူဇော်ထားရှိသည်။

*၄ ထိုဂူကို နောင်အခါ အုတ်တိုက်သဖွယ်ပြုလုပ်ထားပြီး ဂူ၏မုခ်ဝအထက်တွင် 'သာသနာ'ဟုကမ္ပည်းထိုးထားသည်။



ပြည်မြို့ရွှေဆံတော်ဘုရားအနောက်ဘက်ရှိ ကြေးနီကျောင်းနေရာ





ပြည်မြို့ဝိပဿနာကုန်းတောရရှိ လယ်တီဆရာတော်ကြီးသိတင်းသုံးရာဌာန





ပြည်မြို့ ဒါယကာဦးဘညွန့်နှင့်ဒါယိကာမဒေါ်ငြိမ်းရှင်

## လယ်တီကုန်းဝိပဿနာတောရ[*၁]

ပြည်မြို့နှင့်မနီးမဝေး နှစ်မိုင်အကွာရှိ လယ်တီဆရာတော်ကြီးဝါကပ်ဆိုရာဌာနကား ရှေးသူတော်ကောင်းသူမြတ်လောင်း သူတော်စင်ရသေ့ရဟန်း သီလရှင်တို့ တရားမွေ့လျော်ပျော်ပိုက်ရာ တောရများစွာဆက်စပ်ပြည့်လျှမ်းနေသော တောင်စွန်တောတန်းကလေးအတွင်း၌တည်ရှိပါသည်။ လယ်တီဆရာတော်ဝါကပ်သောဌာနသို့ ထိုစဉ်ကရောက်ရှိ၍ သာသနာ့ဘောင်သို့ ဝင်ရောက်ကာ လယ်တီဆရာတော်ကြီးနှင့်အတူသီတင်းသုံးနေခဲ့ဖူးသော အရှင်ကောသလ္လဘွဲ့ခံ စာရေးဆရာကြီးပီမိုးနင်းက အောက်ပါအတိုင်း စာပန်းချီချယ်မှုန်းခဲ့ဖူးပါသည်။[*၂]

> ပြည်မြို့အနီး တစ်ခုသောတောရပ်ကုန်းမြင့်ပေါ်၌ သစ်လွင်သောဝါးကျောင်းကလေးတစ်ခုသည်ရှိလေသည်။ ထိုဝါးကျောင်းကလေးသည် ကုန်းမြင့်နှစ်ခုကိုခွ၍ ဆောက်လုပ်ထားသော ကမ္မဋ္ဌာန်းစင်္ကြံကျောင်းကလေးဖြစ်လေ၏။ ၎င်းကျောင်းကလေးသည် စိမ်းစိုနုပျို၍ မနိမ့်မမြင့်သော အင်ပင်များဖုံးအုပ်လျက်ရှိသောကြောင့် ခပ်လှမ်းလှမ်းမှနေ၍ကြည့်လျှင် သစ်ပင်တို့၏အကြား၌ တစ်စိတ်တစ်ဒေသမျှသာ ထင်ပေါ်သော ဝါးထရံနှင့် သက်ငယ်အမိုးများကိုသာမြင်နိုင်လေ၏။
>
> ထိုကျောင်းကလေးသည် အရှေ့နှင့်အနောက်တန်းလျက်ရှိရာ ကျောင်းပေါ်သို့ တက်ရန် လှေကားမှာ တောင်ဘက်သို့စွန်းထွက်သော အဆောင်ကလေး၌ရှိလေ၏။ ထိုလှေကား၏ရှေ့၌ ရိပ်ငြိမ်သာယာသော အင်တိုင်းမြေညီကုန်းမြင့်ကလေးရှိရာ ထိုကုန်းမြင့်ပေါ်တွင်ပေါက်ရောက်လျက်ရှိသော အင်ပင်များနှင့် ရင်ကတ်ပင်များသည် မိုးဥတုလေထဲတွင် အရွက်ချင်းရိုက်တာ တဖျပ်ဖျပ်မြည်ကြလေ၏။ ထိုကျောင်းငယ်၏ ပတ်လည်သို့ တစ်တောလုံး၌ရှိသမျှသော ပန်းရနံ့အပေါင်းတို့သည် စုပေါင်းကာ လေပြည်ကိုစီနင်းလိုက်ပါ၍လာကြပြီးလျှင် အရညဝါသီတောပျော်အရှင်သူမြတ်ကို ဖူးမြော်ရန်ရောက်ကြသည့်ပမာ ဘယ်အခါမျှမရပ်မစဲ တလှိုင်လှိုင်မွှေးကြိုင်၍နေလေ၏။
>
> ထိုကျောင်းနှင့်မနီးမဝေး တစ်ခုသောကုန်းမြင့်၌ အတော်ကြီးသော ဝါးဇရပ်အဆောက်အအုံတစ်ခုသည်ရှိလေရာ ထိုအဆောက်အအုံ၌ သီတင်းသီလစောင့်သုံးဆောက်တည်သောအရှင်သူမြတ်တို့ကို ဆွမ်းကွမ်းအဖျော်စသည်တို့ကိုကပ်လှူကြလျက် ကမ္မဋ္ဌာန်းဘာဝနာကိုအားထုတ်၍နေကြရှာသော ယောက်ျား, မိန်းမအတော်များစွာတို့သည်ရှိကြလေ၏။ ၎င်းတို့သည် အရေးကိစ္စရှိမှသာလျှင် ရဟန်းတော်သူမြတ်၏ ကျောင်းသင်္ခမ်းသို့လာကြ၍ မိမိတို့၏ဇရပ်မှာသာ အများအားဖြင့်နေကြလေ၏။[*၃]

---

*၁ ဤကုန်းကို နောင်အခါ လယ်တီဆရာတော်ကြီး ပရမတ်တရားများဟောကြားရာဖြစ်သော ပရမတ်ကုန်း၊ ဒိဋ္ဌိအယူစင်ကြယ်ရာဖြစ်၍ ဒိဋ္ဌိကုန်း၊ ဝိပဿနာတရားဟောကြားရာဖြစ်၍ ဝိပဿနာကုန်း၊ လယ်တီဆရာတော်ကြီးသီတင်းသုံးရာဌာနဖြစ်၍ လယ်တီကုန်း-စသည်ဖြင့် ခေါ်တွင်ခဲ့ကြသည်။

*၂ တိုက်စိုး၏ ဂန္ထဝင်စာဆိုပညာရှိလေးဦး။ Quality Publishing House, ရန်ကုန်မြို့။ ၂၀၀၃-ခုနှစ်။ (စာမျက်နှာ-၇၈)။

*၃ ပီမိုးနင်း၏ ချစ်ပန်းနွယ်။ ဂုဏ်ရောင်စာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၆-ခုနှစ်။ (စာမျက်နှာ-၁၃၉၊ ၁၄၀)။

အထက်၌ဖော်ပြသည့်အတိုင်း အလွန်သာယာသောထိုနေရာထိုဌာနတွင် နောင်အခါ စကြံ့ကျောင်းဒကာဦးဘညွန့်တို့က သီဟိုဠ်စွယ်တော်ကြုတ်ပုံစေတီတစ်ဆူကို တည်ထားခဲ့ကြသည်။ အခြားဒကာတစ်ဦးကလည်း လယ်တီဆရာတော်ကြီး၏ဝါဆိုစကြံ့ကျောင်းတည်ရှိရာနေရာတွင် 'လယ်တီတောရဓမ္မပါလစကြံ့ကျောင်း' ဟူသောကမ္ပည်းဖြင့် စကြံ့ကျောင်းတစ်ဆောင်ဆောက်လုပ်ထားခဲ့ကြပါသည်။ *၁

## ဟင်္သာတ၌မိုးခေါင်ခြင်း

သက္ကရာဇ် ၁၂၆၈–ခုနှစ် လယ်တီဆရာတော်ကြီး ပြည်မြို့ လယ်တီကုန်းဝိပဿနာတောရ၌ ဝါကပ်သီတင်းသုံးနေတော်မူစဉ် တော်သလင်းလ(အေဒီ ၁၉၀၆–ခုနှစ်၊ ဩဂုတ်လ)သို့ရောက်သော် ဟင်္သာတနယ်တွင် မိုးနှောင်းကာလ မိုးကြီးပြတ်၍ မိုးခေါင်သကဲ့သို့ဖြစ်ရာ လယ်သမားအများ အခက်ကြုံကြရသည်။ အစိုးရရုံးတော်များတွင်လည်း ယခုနှစ် အခွန်တော်မပေးနိုင်တော့ကြောင်း လျှောက်ထားသော လယ်ပျက်လျှောက်လွှာများရောက်ရှိလာခဲ့လေသည်။ ထိုအခါ ရောဝတီတိုင်းမင်းကြီးမက်ကဆွဲ (Maxwell) သည် ပုသိမ်မြို့ဘက်နယ်လှည့်စစ်ဆေးရင်း ဟင်္သာတမြို့သို့ရောက်လာရာ ဟင်္သာတမြို့၌မိုးခေါင်ပုံအကြောင်း၊ လယ်သမားအများဒုက္ခရောက်ကြရပုံအကြောင်းတို့ကို လက်တွေ့သိရှိသွားပြီး၊ ထိုအင်္ဂလိပ်လူမျိုးတိုင်းမင်းကြီးမက်ကဆွဲ၏စီမံပုံတို့နှင့် ဟင်္သာတမိုးခေါင်၍ လယ်တီဆရာတော်ကြီးစောင်မတော်မူရပုံအကြောင်းတို့ကို လယ်တီဦးဝဏ္ဏိတက နောင်အခါ အောက်ပါအတိုင်း မှတ်တမ်းတင်ခဲ့ပါသည်။

> ရောဝတီမင်းကြီးက အရေးပိုင်,နယ်ပိုင်,မြို့ပိုင်မှစ၍ မြို့ရွာရှိ လူကြီးလူကောင်းအပေါင်းတို့အားဖိတ်ကြားပြီး ဟင်္သာတမြို့၌ လယ်တီဆရာတော်ကိုပင့်၍ တရားပွဲပြုလုပ်ရမည်ဟုအမိန့်ရှိ၏။
>
> အချို့ကတီးတိုးစကားပြောဆိုကြသည်မှာ– 'လယ်တီဆရာတော်နှင့် မိုးခေါင်တာ ဘာဆိုင်သလဲ၊ သူ့သဘာဝ သူ့ဥတုနှင့်သူဖြစ်နေတာ လယ်တီဆရာတော်က ဘာတတ်နိုင်ဦးမှာလဲ၊ ပြဒါးတစ်လမ်း သံတစ်လမ်း' ဟုပြောဆိုကြ၏။
>
> သို့သော် မင်းကြီးအမိန့်ကိုမလွန်ဆန်နိုင်ကြ၍ အချို့အရာရှိကြီးများနှင့် လူကြီးများက ပြည်မြို့သို့သွား၍ လယ်တီဆရာတော်ကိုပင့်ကြရသည်။ အချို့က တရားဟောမဏ္ဍပ်နှင့် စံကျောင်း,သင်္ဘောဆိပ်မှ စံကျောင်းအထိ ရဲလောင်းသွယ်၍ ရာဇမတ်ကာ, သဲဖြူခင်း, ငှက်ပျောပင်စိုက်, ပိတ်မျက်နှာကျက် အဆန်းတကြယ်စီမံဆောက်လုပ်ကြရ၏။
>
> ပြည်မြို့ ဝိပဿနာကုန်းဆရာတော်ဘုရားကြီးအထံတော်သို့ ရောက်ကြ၍ ဟင်္သာတမြို့သို့ တရားဟောကြွတော်မူရန်လျှောက်ကြားကြရာ ဆရာတော်ဘုရားကြီးကမိန့်တော်မူသည်မှာ– 'မင်းတို့အပင့်လာကြတာက ဝါတွင်းကြီးပါလားကွဲ့၊

---

*၁ ဤကျောင်းကို ရန်ကုန်မြို့ ဝတ်လုံဦးဘဝင်း၊ ဇနီးဒေါ်စောမြင့်တို့က ၁၂၉၇–ခုနှစ်တွင်တည်ခဲ့ခြင်းဖြစ်သည်။

ဝါများကျွတ်၍ ခြေခင်းလက်ခင်းသာယာသောအခါမှ တရားပွဲပြုလုပ်လျှင် မသင့်တော်ပေဘူးလားကွဲ့'ဟုမိန့်တော်မူရာ–

'မှန်လှပါဘုရား၊ တရားပွဲဆိုသော်လဲ မိုးရွာဖို့ကအရေးကြီးနေပါသည်ဘုရား၊ ယခုနှစ် ဟင်္သာတနယ်မှာ မိုးပြတ်မိုးခေါင်သဖြင့် လယ်သမားများအခက်ကြုံနေကြပါသည်၊ စပါးပင်များရေပြတ်၍ ပတ်ကြားတွေအက်ပြီးခြောက်သွေ့ကုန်ပါပြီ၊ နောက်တနင်္ဂနွေတစ်ပတ်မျှ ရေမတွေ့ကြရပါလျှင် အသိန်းမကသောစပါးများ ဆုတ်ယုတ်၍ လူတွေငတ်မွတ်ခေါင်းပါး အစာရှားခြင်းဒုဗ္ဘိက္ခန္တရကပ်နှင့် တွေ့ကြုံကြရပါတော့မည်ဘုရား၊ ယခုအခါ ငါး,ဖား,ပုဇွန်များလဲ ရေပြတ်ငတ်မွတ်၍ သေကြေပျက်စီးကြပါပြီ၊ ဤအကြောင်းများကြောင့် ရောဝတီမင်းကြီးက လယ်တီဆရာတော်ကို မပါ,ပါအောင်ပင့်ကြရမည်ဟုအမိန့်ရှိ၍ ယခု ဆရာတော်၏ရှေ့တော်မှောက်သို့ရောက်ကြရပါသည်ဘုရား'–ဟု ရှိခိုးလျှောက်ထားကြ၏။

ဆရာတော်ဘုရားကြီးကလည်း လူသတ္တဝါ,တိရစ္ဆာန်သတ္တဝါတို့၏ ဆင်းရဲပင်ပန်းသေကြေပျက်စီးကြမည့်ဘေးဒုက္ခမှ လွတ်ကင်းချမ်းသာအောင် ကာကွယ်စောင့်ရှောက်လိုသောကြောင့် ထိုဟင်္သာတသားတို့လျှောက်ချက်ကို ဝန်ခံတော်မူ၏။ ဆရာတော်ဘုရားကြီး၏ဝန်ခံတော်မူချက်ကိုရရှိကြသော ဟင်္သာတမြို့သားတို့သည် မနက်ဖြန်ထွက်မည့် ရောဝတီစာပို့မီးသင်္ဘောဖြင့် ခရီးလမ်းစီစဉ်ကြလေ၏။

ကျေးဇူးတော်ရှင်လယ်တီဆရာတော်ဘုရားကြီးက တပည့်မောင်ပဏ္ဍိတ [*၁]အားတိုးတိုးတိတ်တိတ်မိန့်တော်မူသည်မှာ–

'ရွှေစည်းခုံကျောင်းတိုက်မှစ၍ လယ်တီတိုက်သို့ရောက်သည်တိုင်အောင် အနှစ် (၂၀) ရွှေစည်းခုံဘုရားကြီးနှင့် သက်တော်ကြီး,ဝါတော်ကြီးသံဃာတော်များအား သောက်ရေ,သုံးရေ,ချိုးရေတို့ကိုလှူဒါန်းခဲ့တဲ့ ရေဝတ်ကြီး၏အကြောင်းကို ဟင်္သာတမြို့သူမြို့သားတို့အား ထင်ရှားစွာပြရတော့မှာပဲကွဲ့။ ရေလှူရတဲ့ဒါနဟာ ရေရှားပါးသောအခါ, ရေမရှိသောအခါ၌ ရေကိုအလိုရှိ၍တောင့်တလျှင် ချက်ချင်းရေရရှိသည်–ဟု ကျမ်းဂန်အဆိုရှိသည့်အတိုင်း သည်တစ်ခါအချက်ကောင်းပဲကွဲ့'–ဟု အမိန့်ရှိတော်မူ၏။

အဲဒီည့်ဉ့်ကစပြီး အနှစ် ၂၀–ကျော် ရေဝတ်ကြီးကိုအောက်မေ့၍ ဆင်ခြင်တော်မူခြင်း၊ ငါးရံ့မင်းပရိတ်တော်ကြီးကို ပုတီးစိပ်တော်မူခြင်း၊ ပဋ္ဌာန်နတ်နှင့် အထက်

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာကျမ်း။ (စာမျက်နှာ–၅၆)တွင် 'တပည့်မောင်ဝဏ္ဏိတ'ဟု ဖော်ပြထားသော်လည်း၊ ဦးဝဏ္ဏိတသည် သက္ကရာဇ်–၁၂၅၄ (အေဒီ–၁၈၉၂)ခုနှစ်ဖွား၊ ရဟန်းတစ်ဝါရပြီး သက္ကရာဇ်–၁၂၇၄ (အေဒီ–၁၉၁၂)ခုနှစ်သို့ရောက်မှ လယ်တီဆရာတော်ကြီးထံတော်သို့ရောက်ရှိကြောင်း လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၄၅၆)၌ဖော်ပြထားသဖြင့် ဤနေရာတွင် လယ်တီဝဏ္ဏိတမဖြစ်နိုင်ရာ ဆရာတော်ကြီးအပါး၌အသင့်ရှိနေသော လယ်တီပဏ္ဍိတကိုပင် ဖော်ပြရခြင်းဖြစ်သည်။

ဝလာဟာကနတ်တို့အား အထူးမေတ္တာပို့ခြင်း–စသည်တို့ကိုပြုလုပ်တော်မူ၏။ နောက်တစ်နေ့တွင် မဟာထေရ်မြတ်ကြီးသည် နောက်ပါတပည့်ငါးပါးခြံရံလျက် ရောဝတီမီးသင်္ဘောဖြင့်ကြွလာရာ၊ ဟင်္သာတမြို့သို့ဆိုက်ကပ်ကာနီးတွင် ကောင်းကင်တစ်ခုလုံးအခြေအနေ ရုတ်တရက်ရှောင်တခင်ပြောင်းလဲပြီး မိုးတိမ်တွေအုပ်ဖုံးထစ်ချုန်း၍ ဟင်္သာတဆိပ်ကမ်းမကပ်မီ ရောဝတီမြစ်လယ်ခေါင်မှာ တစ်ခဲနက်သည်းထန်စွာရွာသွန်းချလိုက်ရာ တစ်နာရီခွဲမျှကြာလေသည်။

စာပို့သင်္ဘောကြီးသည် ကမ်းသို့မကပ်နိုင်ဘဲ မြစ်လယ်ခေါင်တွင်ကျောက်ဆူးချ၍ ချာလပတ်လည်နေ၏။ မိုးစဲသွားသောအခါမှ သင်္ဘောကြီးသည် တဖြည်းဖြည်းဆိပ်ကမ်းသို့ဆိုက်သည်နှင့်တစ်ပြိုင်နက် အကြိုအဆိုသမားတို့သည် ထမ်းစင်နှင့်သင်္ဘောပေါ်သို့တက်၍ ဆရာတော်ဘုရားကြီးရှေ့တော်မှောက်သို့ ဆိုက်ရောက်ကြကုန်၏။ ဆရာတော်ဘုရားကြီးက မိန့်တော်မူသည်မှာ–

'မင်းတို့က ဘာလုပ်ကြတာလဲကွဲ့'

'မှန်လှပါ ဆရာတော်ဘုရားကြီးအားကြိုဆိုရန် ထမ်းစင်ပါပါသည်' ဟုလျှောက်ကြရာ–

'ငါ ထမ်းစင်အလိုမရှိဘူးကွဲ့၊ ခြေလျင်သွားမယ်' ဟုအမိန့်တော်ရှိရာ–

'မှန်လှပါ၊ မိုးကြီးစွာရွာသွန်းထား၍ မိုးရေနှင့်ရွှံ့နွံတွေ ဗွက်ကြမ်းနေပါကြောင်း' လျှောက်ကြားကြရာ–

ဆရာတော်ဘုရားကြီးက– 'မင်းတို့ ဟင်္သာတမြို့မှာ မိုးခေါင်ရေရှားနေသည်ဟုကြားရာ ယခုတော့ မိုးရွာရေပေါ်၍နေပြီမဟုတ်လားကွဲ့' ဟုမိန့်တော်မူပြီး ထမ်းစင်ကိုမစီးဘဲ မြေပြင်ရေပြင်တွင် ခြေလျင်ကြွတော်မူ၏။

ကမ်းထိပ်သို့ရောက်သောအခါ ကမ်းလုံးညွတ်မျှ စောင့်ဆိုင်းကြိုဆိုလျက်ရှိကြသော ပရိသတ်ထဲမှ ရောဝတီမင်းကြီးမက်ကဆွဲသည် ဆရာတော်ဘုရားကြီးအားအရိုအသေပေး၍ နှုတ်ခွန်းဆက်ကာ ဆရာတော်ဘုရားကြီး၏နောက်မှလိုက်၍ စံကျောင်းတော်သို့ပင့်ဆောင်သွားကြလေ၏–ဟုဖြစ်ပါသည်။*၁

ဒေါ်မာလာရီနှင့်တွေ့ဆုံခြင်း

ပြည်မြို့၌ လယ်တီဆရာတော်ကြီးသီတင်းသုံးနေစဉ် ပြည်မြို့ပေါ်၌ ပရမတ္ထသံခိပ်အသင်းများဖွဲ့ကြ၊ ကျက်မှတ်ကြဖြင့် အဘိဓမ္မာသာသနာရောင်သည် ပြည်မြို့၌ထွန်းထိန်ခဲ့ရသည်။ ထိုစဉ်နာမည်ကျော်ဝမ္မကထိက စိန်ဇနီ(ဆရာခင်)နှင့် နှမတော်စပ်သူဆရာလေးဒေါ်မာလာရီ*၂ သည်

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ ၅၅–၅၈)။

*၂ နောင် စစ်ကိုင်းတောင်ရိုး သမိဒ္ဓါဒယရှောင်တည် ဆရာကြီးဒေါ်မာလာရီဖြစ်သည်။

ရွှေဘိုမြို့အနီး သရိုင်ရွာကြီးနေ ထရံကာဆရာကြီးဦးအုန်းညွန့်(အေဒီ ၁၈၄၅–၁၉၂၅)*၁ ထံ၌ လေးနှစ်တိုင်တိုင် မူလဋီကာနှင့်ပဋ္ဌာန်းစာဝါများတက်ပြီးနောက်*၂ ပြည်မြို့ ရွှေဟင်္သာတောရ၌ ခေတ္တနေထိုင်စဉ် သံခိပ်အသင်းသူမသက်မေက ပရမတ္ထသံခိပ်၊ စိတ်ပိုင်းလာ 'ဈာန် မဟဂ္ဂုတ်၊ ဈာန်လောကုတ်၊ သရုပ်ခြောက်ဆယ့်ခွန်'ဟူသော သံခိပ်အမှတ်(၃၅)ပါ သရုပ်အရေအတွက်ကို ရေတွက်ပြစမ်းပါ–မေးရာ၊ ဆရာလေးက ချက်ချင်းပင်ရေတွက်ပြလိုက်ရာ၊*၃ မသက်မေက– 'ဆရာလေး၊ သရိုင်ပြန်မသွားပါနဲ့တော့၊ ဒီမှာပဲ သံခိပ်ဆရာလုပ်နေပါ၊ တပည့်တော်တို့ ကိုးကွယ်ပါရစေ'ဟု အတင်းတောင်းပန်လေသည်။

ဒေါ်မာလာရီကလည်း 'ကျွန်မ စာမတတ်သေးပါဘူး၊ ခုမှသင်တုန်းပါ'ဟု အတင်းငြင်းလေသည်။ အခြားဒါယကာကြီးတို့က 'အို–ဒီလောက်တတ်ရင် ကိုးကွယ်ထိုက်နေပါပြီ'ဟုပြောကြပြန်၏။

ဤသို့ ဆရာလေးဒေါ်မာလာရီ သံခိပ်သင်ပေးနေကြောင်း လယ်တီဆရာတော်ကြီးသိတော်မူလျှင် ထိုဆရာလေးအားခေါ်ယူမေးမြန်းပြီး ဆရာလေး၏အစွမ်းအစကိုရိပ်မိတော်မူကာ ဒါယကာကြီးတို့ကို 'နင်တို့မှာ ဆရာကောင်းကောင်းမရှိသေးဘူး၊ ဒီသီလရှင်ကိုရအောင်မင့်ထားကြ'ဟု မိန့်ကြားတော်မူပါသည်။*၄

**မအေ, ကလေးတွေလိမ္မာမှ**

လယ်တီဆရာတော်ကြီးသည် ပြည်မြို့တွင်သီတင်းသုံးနေတော်မူစဉ် ပရမတ္ထသံခိပ်ကုမ္မာရီအမျိုးသမီးအသင်းတို့ကို ဖွဲ့စည်းတည်ထောင်ပေးတော်မူပါသည်။ ထိုအခါ အမျိုးသားတို့က 'ဆရာတော်ကြီး မျက်နှာလိုက်သည်'ဟု တီးတိုးပြောကြသည်။ သို့သော် ဤစကားသည် ဆရာတော်ကြီး၏နားတော်သို့ ပေါက်ရောက်ခဲ့သည်။ ညဘက်တရားပွဲတွင် ဆရာတော်ကြီးက အမျိုးသမီးများကို ကုမ္မာရီအသင်းဖွဲ့စည်းပေးရခြင်းနှင့်စပ်သော မိမိ၏ရည်ရွယ်ချက်ကို အောက်ပါအတိုင်း ရှင်းလင်းမိန့်ကြားတော်မူပါသည်။

'ဟေ့–ဒါယကာများ၊ ငါက မင်းတို့အတွက် ကုမ္မာရီအသင်းဖွဲ့ရတာကွယ်၊ မင်းတို့က မသိကြလို့၊ ဟော–ငါက အမေ,ကလေးတွေ လိမ္မာအောင် ဟောပေးတော့ အမေ,ကလေးတွေ လိမ္မာလာရော၊ အမေ,ကလေးတွေလိမ္မာတော့ သားသမီးတွေပါ လိမ္မာလာရော၊ သားသမီးတွေလိမ္မာတော့ ဖအေလုပ်တဲ့လူမှာ ချမ်းသာရော

*၁ နောင် သက္ကရာဇ်–၁၂၇၉ (အေဒီ–၁၉၁၇)ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့ရ၍ အဂ္ဂမဟာပဏ္ဍိတ ထရံကာဆရာကြီး ဦးအုန်းညွန့်–ဟုထင်ရှားသောပုဂ္ဂိုလ်ကြီးဖြစ်ပါသည်။

*၂ ရဝေထွန်း၏ ထရံကာဆရာကြီးဦးအုန်းညွန့်။ ဉာဏ်လင်းဓမ္မစာပဒေသာစာစောင်။ ၁၉၈၅–ခုနှစ်။ ဇူလိုင်လ။ (စာမျက်နှာ–၈၇)။ ဒေါ်မာလာရီသည် သက္ကရာဇ်–၁၂၇၂ (အေဒီ–၁၉၁၀)ခုနှစ်တွင် သမိဒ္ဓေါဒယကျောင်းတည်ထောင်ပြီးမြစ်၍ ဆရာကြီးဦးအုန်းညွန့်ကို မိမိကျောင်းသို့ပင့်၍ သီလရှင်အများကို စာလိုက်စေခဲ့ပါသည်။

*၃ မဟဂ္ဂုတ်စိတ် ၂၇ + လောကုတ္တရာစိတ်အကျယ် ၄၀ = ပေါင်းလျှင် ၆၇–ရ၏။ ဤစိတ် ၆၇–ပါးသည် ဈာန်စိတ်မည်ကုန်၏။

*၄ အရှင်နန္ဒမာလာဘိဝံသ၏ သမိဒ္ဓေါဆရာကြီးဒေါ်မာလာရီ အနှစ်–၉၀ ခရီး။ (စာမျက်နှာ–၈၄)။

မဟုတ်လားကွယ့်။ တကယ်တော့ အမေလုပ်တဲ့သူဟာ ဖအေလုပ်တဲ့လူထက်ပိုပြီး သားသမီးတွေနဲ့လက်ပွန်းတတီးနေရတယ်။ ဒါကြောင့် မအေတွေလိမ္မာဖို့က ပထမ ကွဲ့။ ငါတို့ သူတို့လိမ္မာအောင် ကုမ္မာရီအသင်းကိုဖွဲ့ပေးတာ'ဟူ၍ဖြစ်ပါသည်။

ဒါယကာကြီးတို့မှာ ဆရာတော်ကြီး၏ဆန္ဒတော်ကို ယခုမှသိမြင်ကြပြီး မိမိတို့အိမ်တွင်းမှသာမက ရပ်ရွာတွင်းရှိ အမျိုးသမီးကြီး,ငယ်တို့ကိုပင် ကုမ္မာရီအသင်းသို့ဝင်ကြရန် တိုက်တွန်းခဲ့ကြပါသည်။

## ရန်ကုန်မြို့သို့

လယ်တီဆရာတော်ကြီးသည် ပြည်မြို့ ဝိပဿနာတောရ၌ဝါကပ်တော်မူပြီး၊ ဝါကျွတ် (အေဒီ ၁၉၀၆–ခုနှစ်၊ အောက်တိုဘာလ) လျှင် ရန်ကုန်မြို့သို့ ပြန်ကြွတော်မူပါသည်။ ရန်ကုန်မြို့သို့ရောက်လျှင် ပုဇွန်တောင်ရပ် ညောင်ကုန်းကျောင်းတိုက်၌သီတင်းသုံးတော်မူပါသည်။

ဤအချိန်တွင် ရန်ကုန်မြို့၌ အနောက်နိုင်ငံ(အင်္ဂလန်နိုင်ငံ)၌ဗုဒ္ဓသာသနာပြန့်ပွားရေးအတွက် အင်္ဂလိပ်လူမျိုးရဟန်းတော်ဘိက္ခုအာနန္ဒမေတ္တေယျ*၁ ဦးဆောင်၍ ရန်ကုန်မြို့၏မျက်နှာဖုံး မင်းကြီးကတော်ဒေါ်မြမေ၊ ဆာမောင်ခင်၊*၂ ဦးရွှေဇံအောင်*၃–စသည့်မြန်မာလူမျိုးများသာမက ဒေါက်တာရော့စ်၊*၄ မစ္စတာမက္ကနီ*၅–စသည့် အင်္ဂလိပ်လူမျိုးများပါဝင်၍ ဗုဒ္ဓသာသနသမာဂမအမည်ရှိသော

---

*၁ လူအမည်မှာ Charles Henry Allan Bennett- ဖြစ်သည်။ အာနန္ဒမေတ္တေယျကို လန်ဒန်မြို့၌ ၁၈၇၂–ခုနှစ်၊ ဒီဇင်ဘာလ ၈–ရက်နေ့တွင်ဖွားမြင်ခဲ့ပြီး၊ ဓာတုပညာကိုလေ့လာလိုက်စားခဲ့သည်။ ၁၈၉၀–ပြည့်နှစ်တွင် Light of Asia အမည်ရှိ ဗုဒ္ဓဝင်လင်္ကာကြီးကိုဖတ်ရှုရပြီး ဗုဒ္ဓဘာသာသို့သက်ဝင်ခဲ့သည်။ ၁၈၉၈–ခုနှစ်တွင် သီဟိုဠ်၌ ဓမ္မစာပေသင်ယူခဲ့သည်။ ထို့နောက် မြန်မာနိုင်ငံ စစ်တွေမြို့သို့လာရောက်၍ ၁၉၀၁–ခုနှစ်တွင် ရှင်သာမဏေပြုသည်။ ၁၉၀၂–ခုနှစ်၊ မေလ ၂၁–ရက်နေ့တွင် ရဟန်းဘောင်သို့တက်ရောက်ခဲ့သည်။ ၁၉၀၃–ခုနှစ်၊ မတ်လ ၁၅–ရက်နေ့တွင် ဗုဒ္ဓသာသနသမာဂမအဖွဲ့အစည်း ဖွဲ့စည်း၍ အနောက်နိုင်ငံ၌ ဗုဒ္ဓသာသနာပြန့်ပွားအောင်ဆောင်ရွက်ခဲ့သည်။ အာနန္ဒမေတ္တေယျသည် ၁၉၂၃–ခုနှစ်၊ မတ်လ(၉)ရက်နေ့တွင် လူဝတ်လဲ၍ကွယ်လွန်ခဲ့သည်။ Christmas Humphneys' A Buddhist Student's Manual. The Buddhist Society, London, 1956. Page 26-28.

*၂ မြန်မာထဲမှ အင်္ဂလိပ်လက်ထက်၌ ပထမဦးတရားသူကြီး၊ ပထမဆုံးပြည်ထဲရေးဝန်ကြီးဖြစ်သည်။ ၁၈၇၂–ခုနှစ်တွင် ဖွားမြင်၍၊ ၁၈၉၈–ခုနှစ်တွင် အင်္ဂလန်နိုင်ငံ Middle Temple Inn မှ ဝတ်လုံစာမေးပွဲအောင်မြင်သည်။ ၁၉၂၄–ခုနှစ်တွင် KCIE ခေါ် ဆာဘွဲ့ကို မြန်မာထဲမှပထမဦးချီးမြှင့်ခံရသည်။ ပြည်ထဲရေးဝန်ကြီးဖြစ်နေစဉ် ၁၉၂၄–ခုနှစ်၊ အောက်တိုဘာလ ၂၂–ရက်နေ့တွင် ကွယ်လွန်သည်။ မြန်မာစွယ်စုံ၊ ၂။ ၁၉၇၃–ခုနှစ်။ (စာမျက်နှာ–၃၀၈၊ ၃၀၉)။

*၃ မြန်မာထဲမှ အင်္ဂလိပ်လက်ထက်၌ ပထမဦး ယစ်မျိုးမင်းကြီးဖြစ်သည်။ ၁၈၇၁–ခုနှစ်တွင်ဖွားမြင်၍၊ ၁၈၉၁–ခုနှစ်တွင် ထိုခေတ်က မြန်မာနိုင်ငံ၌ အမြင့်ဆုံးဝိဇ္ဇာဘွဲ့(B.A)ကို ရရှိသည်။ ၁၈၉၂–ခုနှစ်တွင် ပညာရေးဌာန၊ ၁၉၀၂–ခုနှစ်တွင် မြို့အုပ်၊ ၁၉၀၇–ခုနှစ်တွင် ဝန်ထောက်၊ ၁၉၁၄–ခုနှစ်တွင် A.T.M ဘွဲ့တံဆိပ်ရ၍ ၁၉၁၈–ခုနှစ်တွင် ကျောက်တန်းနယ်ပိုင်၊ ၁၉၂၀–ပြည့်နှစ်တွင် အတွင်းဝန်၊ ၁၉၂၃–ခုနှစ်တွင် K.S.M တို့ကိုရ၍ ယစ်မျိုးမင်းကြီးဖြစ်ပြီး၊ ၁၉၂၆–ခုနှစ်တွင် အငြိမ်းစားယူခဲ့သည်။ ၁၉၁၀–ပြည့်နှစ်တွင် သင်္ဂြိုဟ်ကျမ်းကို အင်္ဂလိပ်ဘာသာပြန်ဆိုနိုင်ခဲ့သည်။ တက္ကိကနယဒီပနီ၊ ဇရာလက္ခဏာဒီဒီပနီ၊ ကာယဂ်သမ္မာရဒီပနီ၊ ရူပဒီပနီကျမ်း–တို့ကိုရေးသားခဲ့သည်။ ၁၉၃၂–ခုနှစ်၊ မေလ ၁၁–ရက်နေ့တွင် ကွယ်လွန်သည်။ မြန်မာစွယ်စုံ၊ ၁၁။ ၁၉၇၀–ပြည့်နှစ်။ (စာမျက်နှာ–၄၂၉၊ ၄၃၀)။

*၄ Dr. E.R. Rost.

*၅ J.F.M' Kechnie. စကော့ (Scot) လူမျိုးဖြစ်သည်။



# BUDDHISM.

An Illustrated Quarterly Review.

VOL. I. DECEMBER 1903. No. 2.

CONTRIBUTIONS BY

| | |
|---|---|
| T. W. RHYS DAVIDS, Ph. D., LL. D., | JAMES ALLEN, |
| AUNG KIN, | E. H. SEPPINGS. |
| SHWE ZAN AUNG, | ANANDA M. |

ACCOUNT OF THE THATHANABAING'S RECOGNITION.

Reviews, News and Notes, Buddhist Activities, Etc.

(3s.) PRICE TWO RUPEES. ($0-75c)

Printed and published for the International Buddhist Society

BY THE HANTHAWADDY PRINTING WORKS, RANGOON, BURMA.

...FT OF TRUTH EXCELS ALL OTHER GIFTS.

**BUDDHISM** (ဗုဒ္ဓစ်ဇင်း) စာစောင်၏ရှေ့မျက်နှာဖုံး



အရှင်အာနန္ဒမေတ္တေယျနှင့်ဗုဒ္ဓသာသနသမာဂမအဖွဲ့ဝင်ပုဂ္ဂိုလ်များ

အသင်းကြီးကိုဖွဲ့စည်းကာ ဆောင်ရွက်နေချိန်ဖြစ်သည်။ ထိုအသင်း၏ဩဝါဒါစရိယဆရာတော်ကြီးတို့တွင် တောင်ခွင်သာသနာပိုင်၊ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးတို့အပါအဝင်ဖြစ်ကြသည်။ ဤအသင်းမှ ဗုဒ္ဓစ်ဇင်း (Buddhism) အမည်ရှိသောစာစောင်ကိုလည်း ခံ့ညားသပ်ရပ်စွာ လေးလလျှင် တစ်ကြိမ် ပုံနှိပ်ထုတ်ဝေခဲ့သည်။ လယ်တီဆရာတော်ထံတော်တွင်ရဟန်းခံခဲ့သော အရှင်ကောသလ္လ ဘွဲ့ခံ စာရေးဆရာကြီးပီမိုးနင်းလောင်းလျာသည် ရန်ကုန်မြို့သို့ရောက်၍ ဗဟန်းဦးပြားတောရတွင် သီတင်းသုံးနေသော ဘိက္ခုအာနန္ဒမေတ္တေယျကိုယ်တော်ထံသွားရောက်၍နေထိုင်ခဲ့လေသည်။[*၁]

**ဂေါဏသုရာဒီပနီ**

သက္ကရာဇ် ၁၂၆၈–ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၃–ရက် (အေဒီ–၁၈၊ အောက်တိုဘာလ၊ ၁၉၀၆–ခုနှစ်)တွင် ရောဝတီတိုင်း ကြံခင်းမြို့သို့ လယ်တီဆရာတော်ကြီးရောက်ရှိတော်မူကာ ပရမတ္ထသံခိပ်အသင်းကို ဖွဲ့စည်းပေးတော်မူပါသည်။ ထို့ပြင် တန်ဆောင်မုန်းလဆန်း ၃–ရက်နေ့မှ လဆန်း ၁၁–ရက် (၁၈၊ ၁၀၊ ၁၉၀၆ မှ ၂၆၊ ၁၀၊ ၁၉၀၆) အထိ ကိုးရက်တိုင်တိုင် ညစဉ် ဓမ္မာရုံတန်ဆောင်းကြီး၌ နွားသားရှောင်ကြဉ်ရေးတရားပွဲကိုဟောကြားတော်မူပါသည်။ တရားနာယူသူ အများအပြားသည် တရားပွဲပြီးသည့်အခါ အမဲသားရှောင်ကြဉ်ရန် ကတိထားသူလည်း များပြားလှပေသည်။ ထိုစဉ်က ဆရာတော်ကြီးဟောကြားသော နွားသားရှောင်ကြဉ်ရေးတရားကို ဟင်္သာတမြို့ အယူခံဝန်ထောက်ဦးကျော်ငြိမ်း၊ ရာဇဝတ်ဝန်ထောက် ဦးနီ၊ နယ်ပိုင်ဝန်ထောက်ဦးဘိုးနှစ်တို့က 'မှတ်သားလိုပါသည်၊ စာဖြင့်ရေးသားချီးမြှင့်ပေးတော်မူပါဘုရား' ဟု တောင်းပန်လျှောက်ထားချက်အရ လယ်တီဆရာတော်ကြီးသည် ထိုမြို့၌ ခေတ္တသီတင်းသုံးနေတော်မူစဉ်မှာပင် ဂေါဏသုရာဒီပနီကျမ်းကိုရေးသား၍ပေးတော်မူခဲ့ပါသည်။

**မော်လမြိုင်မြို့သို့**

သက္ကရာဇ် ၁၂၆၈–ခုနှစ်၊ တန်ဆောင်မုန်းလ (အေဒီ ၁၉၀၆–ခုနှစ်၊ နိုဝင်ဘာလ)တွင် မော်လမြိုင်မြို့မှသူဌေးကြီးဦးတိုးလုံးက တရားပွဲချီးမြှောက်ပေးပါရန် ပင့်လျှောက်သည့်အတွက် မော်လမြိုင်မြို့သို့ ကြွတော်မူရပါသည်။ ဤတရားပွဲမှာ ဘုရားပွဲနှင့်တွဲဖက်၍ကျင်းပသောတရားပွဲဖြစ်သည်။ ဘုရားပွဲဆိုသည်မှာ မော်လမြိုင် ကျိုက်သံလန်တောင်ရိုးရှိ တောင်ပေါက်ကျောင်းကြီး၏တောင်ဘက်၌ ရေကန်ကြီးအနီးတွင် ရှေးကတည်ခဲ့သောစေတီတစ်ဆူရှိပြီး၊ ထိုစေတီတော်ကို ဝဇီရာရာမ ဆရာတော်၏အမိန့်ဖြင့် သီဟိုဠ်ပုံစေတီအဖြစ် ပြုပြင်တည်ထားခဲ့သည်။ တည်ပြီးသော် 'လောကဥသျှောင်' ဟုဘွဲ့ချည်တော်မူခဲ့ကြသည်။ ပြီးလျှင် နှစ်စဉ် တန်ဆောင်မုန်းလပြည့်နေ့၌ ဘုရားပွဲပြုလုပ်ကျင်းပရာ ၁၂၆၈–ခုနှစ်တွင် ၃–ကြိမ်စေ့ရောက်ခဲ့သည်။ ဤနှစ်ဘုရားပွဲတွင် သူဌေးကြီးဦးတိုးလုံးက ပျော်ပွဲရွှင်ပွဲသက်သက်ဖြစ်နေသော ဘုရားပွဲတွင် တရားပွဲထည့်သွင်းရလျှင်ကောင်းမည်ဟုအကြံရ၍ ထိုစဉ်အခါက နိုင်ငံတော်အတွင်း တရားဟောအကျော်ဖြစ်တော်မူသော လယ်တီဆရာတော်ကြီးကို ပင့်ဆောင်ခဲ့ခြင်းဖြစ်သည်။

---

[*၁] ပီမိုးနင်း၏ ပီမိုးနင်း။ တင်ဆွေအေးစာအုပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ–၄၇)။



မော်လမြိုင်မြို့တောင်ပေါက်ကျောင်းတိုက်အနီးရှိ လောကဥသျှောင်ဘုရား





မော်လမြိုင်မြို့ဆင်ဖြူကျောင်း

သူဌေးကြီးဦးတိုးလုံ

တရားပွဲကျင်းပရာဌာနမှာ ကျိုက်သံလန်တောင်တန်းရှိ တောင်ပေါက်ကျောင်းကြီးအတွင်း ကျောင်းဒါယကာဦးတိုးလုံ၏နှမအရင်းဒေါ်လွှာ ဆောက်လုပ်လှူဒါန်းသောဓမ္မာရုံကြီးတွင်ဖြစ်သည်။ ထိုစဉ်က လယ်တီဆရာတော်ကြီး၏တရားပွဲမှာ ဘုရားပွဲနှင့်တွဲဖက်ကျင်းပသဖြင့် မော်လမြိုင်မြို့သူမြို့သားများစွာတို့ ဘုရားပွဲလာရင်း တရားပွဲသို့ဝင်ရောက်တရားနာယူကြရာ ထိုပရိသတ်များစွာတို့သည် တရားအရသာကိုခံတွင်းတွေ့ကြသဖြင့် တရားပွဲကို ရက်အတော်ကြာအောင်ပင် စိမ်ကျင်းပကြရသည်။ ဆရာတော်ကြီးမှာ အခြားအရပ်ဒေသများသို့ခရီးကြွချီရန် ပင့်ဖိတ်ထားပြီး ဖြစ်သဖြင့် မော်လမြိုင်မြို့သူမြို့သားများက ဆရာတော်ကြီးအား ဝါတွင်းကာလတွင် ဤမြို့သို့ ကြွရောက်ပြီး ဝါကပ်ဆိုတော်မူပါရန် လျှောက်ထားခဲ့ကြသည်။ ဆရာတော်ကြီးကလည်း နောင် အဆင်သင့်သောအခါ ဝါကပ်ဆိုမည်ဟု ကတိပေးတော်မူခဲ့ပါသည်။*၁

**သံခိပ်အသင်းများ**

ဤကာလအတွင်း လယ်တီဆရာတော်ကြီး၏ပရမတ္ထသံခိပ်လက်စွဲကို ကျက်မှတ်ကြသော အနယ်အနယ်အရပ်ရပ်တို့မှ ပရိသတ်မှာ များပြားလှသောကြောင့် မဖြစ်စဖူးထူးကဲလှသည်ဟု ဆိုရမည်။ ရှေးရှေးသောအခါက ထင်ရှားတော်မူကုန်သော ဆရာတော်ကြီးများစွာရှိတော်မူခဲ့ ကြသော်ငြား ထိုဆရာတော်ဘုရားကြီးတို့အား ကိုးကွယ်ဆည်းကပ်ရာ၌မူကား လူကြီးပရိသတ်သာ များသည်။ ရံခါ လူလတ်အချို့ပါရှိသည်။ လူငယ်လူရွယ်ပရိသတ်ကား မရှိသလောက်ရှားသည်။ ယခု လယ်တီဆရာတော်ကြီးထင်ရှားသောခေတ်တွင် လူကြီး၊ လူလတ်သာမက လူငယ်ပရိသတ် က ရှေ့တန်းသို့ရောက်နေကြောင်းတွေ့ရသည်။

သို့ပါ၍ လယ်တီဆရာတော်ကြီးအား ရွာတစ်ရွာကပင့်လျှင်ပင် ပရမတ္ထသံခိပ်ကျက်မှတ်သူ စာရင်းကို ကြို၍ဆရာတော်ကြီးလက်တော်သို့ပို့ကြရသည်။ မြို့သေးလျှင် ပရမတ္ထသံခိပ်ကျက်မှတ် သူဦးရေ-၁၀၀ ခန့်၊ မြို့ကြီးလျှင် ၁၅၀-ဦးခန့်ရှိပြီဟုဆိုပါက ဆရာတော်ကြီးက ပရမတ္ထသံခိပ် အသင်းဖွဲ့စည်းပေးရန် ထိုမြို့ရွာသို့ကြွတော်မူမြဲဖြစ်ပါသည်။*၂

သံခိပ်အသင်းဖွဲ့စည်းရာတွင် ယောကျ်ားကလေးအသင်း၊ မိန်းကလေးအသင်း(ကုမ္မာရီ အသင်း-ဟုလည်းခေါ်သည်။) ဟူ၍ နှစ်မျိုးခွဲသည်။ မည်သည့်အသင်း၌မဆို အုပ်ချုပ်သူ ပထမဥက္ကဋ္ဌ၊ ဒုတိယဥက္ကဋ္ဌ၊ ငွေထိန်းလူကြီး၊ စာရင်းကိုင်၊ အကျိုးဆောင်၊ သင်တန်းပြဆရာ- သည်ဖြင့်ပါရှိရသည်။ ပမာအားဖြင့် ၁၉၀၇-ခုနှစ်၊ ဇန်နဝါရီလထုတ် မဟာဗောဓိသတင်းစာပါ န်ကုန်မြို့ ပရမတ္ထကုမ္မာရီအသင်းဖွဲ့စည်းကြောင်းသတင်းတွင်-

၁။ ကွက်သစ်မင်းကြီးကတော်မမြမိတ်ကို အသင်း၏ပထမဥက္ကဋ္ဌ ပြီစီဒင်၊*၃

၂။ ကမ်းနားဈေးဒေါ်သက်ကို ဒုတိယပြီစီဒင်၊

---

ဦးဘသန်း၏ ဦးတိုးလုံအတ္ထုပ္ပတ္တိ။ မင်္ဂလာစာပုံနှိပ်တိုက်၊ မော်လမြိုင်မြို့။ ၁၃၁၂-ခုနှစ်။ (စာမျက်နှာ ၃၆-၃၈)။

ညီညီဖိုး၏ လယ်တီဆရာတော်၏ဘဝနှင့်စာပေ။ (လက်နှိပ်စက်မူ)။ ၁၉၈၁-ခုနှစ်။ (စာမျက်နှာ-၂၀)။

President

၃။ ကုန်သည်မဖွားသိုက်ကို ငွေထိန်းလူကြီး၊
၄။ ကုန်သည်မထွေးကို အသင်းစာချုပ်ကိုင်လူကြီး၊
၅။ ကုန်သည်မသိန်းရင်ကို အကျိုးဆောင်စက္ကရီတေရီ-ဟူ၍ အသီးသီးသဘောတူခန့်ထားကြောင်းတွေ့ရသည်။ *၁

သံခိပ်သင်ကြားပေးရာတွင် ယောကျ်ားလေးအသင်းကို ယောကျ်ားဆရာကသင်ပေးပြီး၊ မိန်းကလေးအသင်းကို အမျိုးသမီးဆရာမကသင်ပေးရသည်။ ရံခါ သီလရှင်ဆရာတို့လည်း ကူညီ၍သင်ကြားပေးကြပါသည်။

ဤသို့သင်ကြားကြရာတွင် ထိုသင်တန်းပြဆရာများက မိမိတို့မြို့ရွာအလိုက် ပရမတ္ထသံခိပ်ကို ရှင်းလင်းဖြေဆိုသောစာအုပ်များရေးသားကာ ပုံနှိပ်ထုတ်ဝေခဲ့ကြသည်။ ပမာအားဖြင့် မော်လမြိုင်မြို့ ဒိုင်းဝန်ကွင်းရပ် ပန်းတိမ်တန်း၌နေသော ပရမတ္ထသံခိပ်ဆရာ မောင်ပန်းသာသည် 'ပရမတ္ထသံခိပ်အဖြေကျမ်း' အမည်ဖြင့် သံခိပ်အဖြေစာအုပ်ကို သက္ကရာဇ် ၁၂၆၈-ခုနှစ်၊ ဝါခေါင်လ (အေဒီ ၁၉၀၆-ခုနှစ်၊ ဇူလိုင်လ)တွင် မော်လမြိုင်မြို့ ရမ္မာပူရစာပုံနှိပ်တိုက်မှ အုပ်ရေ (၁၀၀၀) ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။ ထို့အတူ ရန်ကုန်မြို့ ဗဟန်းရပ်နေ သီလရှင်မယ်စန္ဒာသည်လည်း 'ပရမတ္ထသံခိပ်အမေးအဖြေ' အမည်ဖြင့် သံခိပ်အဖြေစာအုပ်ကို သက္ကရာဇ် ၁၂၇၀-ပြည့်နှစ်အတွင်း ရန်ကုန်မြို့ သုဓမ္မဝတီပုံနှိပ်တိုက်မှ အုပ်ရေ (၃၀၀၀) ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။

သံခိပ်အသင်းသူအသင်းသားများသည် လယ်တီဆရာတော်ကြီး မိမိတို့မြို့ရွာသို့ကြွလာတော်မူသည့်အခါ သင်္ဘောဖြင့်ကြွလာလျှင်ဆိပ်ကမ်းကနေ၍ ရထားဖြင့်ကြွလာလျှင် ဘူတာရုံစသည်အတွင်းမှနေ၍ ဦးနှိမ်ချလျက် သံခိပ်လင်္ကာများရွတ်ဆိုပူဇော်ကာခရီးဦးကြိုကြရသည်။ ပရမတ္ထသံခိပ်အသင်းသူအသင်းသားအားလုံး အမဲသားရှောင်ကြဉ်ကြရသည်။ နောင်အခါ ပရမတ္ထသံခိပ်ကို မြို့ရွာလူကြီးများကြီးမှူး၍ စာမေးပွဲကျင်းပရာ အောင်မြင်သူများမှာ ရွှေတံဆိပ်ဆု၊ ငွေတံဆိပ်ဆုစသည်ဖြင့် ဆုများ၊ အောင်လက်မှတ်များရရှိကြပါသည်။

**မဟာဝိသုဒ္ဓါရုံဆရာတော်၏ မေတ္တာ,ကရုဏာ**

ဤသို့ ပရမတ္ထသံခိပ်အသင်းကြီးများကျယ်ပြန့်လာသည်နှင့် ပရမတ္ထသံခိပ်အသင်းများကို နီးနီးကပ်ကပ်အုပ်ချုပ်ကွပ်ကဲနေရသော လယ်တီပဏ္ဍိတ စသောဆရာတော်ကြီး၏တပည့်ရင်းရဟန်းပျိုတို့မှာ လောကီဘက် ရိုင်ချင်သလိုလိုဖြစ်လာကြသည်။ ဤသတင်းသည် မန္တလေးမြို့ရှိ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏နားတော်သို့ပင် ပေါက်ခဲ့ရသည်။ သို့ပါ၍ တစ်နှစ်တစ်ဝါမိမိထံတော်ပါး၌ပညာဆည်းပူးခဲ့သူ တပည့်ပဏ္ဍိတကိုနှမြောတော်မူ၍ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးက အနက်အဓိပ္ပာယ်နှစ်ဖက်ရသော ဂါထာတစ်ပုဒ်ကို လယ်တီပဏ္ဍိတထံ ရေးသားပေးပို့တော်မူခဲ့ပါသည်။ *၂

---

*၁ မဟာဗောဓိသတင်းစာ။ အတွဲ-၆၊ အမှတ်-၇၁။ ၁၉၀၇-ခုနှစ်၊ ဇန်နဝါရီလ။ (စာမျက်နှာ-၈၄၈)။

*၂ ဝိသုဒ္ဓါရုံထေရုပ္ပတ္တိကထာနှင့် ထေရဘာသိတပကိဏ္ဏကဂါထာ။ (စာမျက်နှာ-၁၀၀)။

အလုံးရုံသောလူ့ရှင်ရဟန်းတို့၏၊ပင်ပန်းရိုရှား၊ခွမ်းပါးမည့်
အရေးကို၊မြော်တွေးငဲ့ညှာတော်မူလေ့ရှိသော

**လယ်တီဆရာတော်ဘုရားကြီး**

သည်၊
များစွာသောလူ့ရှင်အပေါင်းတို့အား၊ရိုရှားပင်ပန်းခြင်း
မရှိ၊သပြိုဟ်ပါဠိကိုမလေ့ကျက်ဘဲ၊သံပေါက်
လက်သမျှဖြင့်၊ကျနတတ်မြောက်၊ပေါက်
ရောက်လွယ်ကူ၊ယေ်ရွှယ်သူတို့ပင်၊သင်ယူရမိ၊ကြေ
ငြာရှိက၊အဘိဓမ္မာအရေး၊ဉာဏ်ကြွယ်ဋ္ဌေး၍၊
ယှဉ်ကျေးပြွမ်းတီး၊အလိမ္မာကြီးကြွးစ
ခြင်းငှာ၊ကောင်းစွာရေးသားစီ
ရင်တော်မူအပ်သော

**ပရမတ္ထသံခိပ်ကျမ်း၊**

ဆရာတော်ဘုရားကြီးနောက်ထပ်ပြင်ဆင်ထည့်
စွက်အတည်ပြုတော်မူသည့်အတိုင်း၊
ဒုတိယအကြိမ်ပုံနှိပ်သည့်၊
စာအုပ်ရေ-၅၀၀၀၊
သက္ကရာဇ် ၁၂၈၇-ခုနှစ်၊ဝါဆိုလ၊

ရန်ကုန်မြို့၊
၂၅-လမ်းစာဆိုတန်း၊တိုက်နံပါတ်-၄၉
ကဗိမျက်မှန်စာပုံနှိပ်တိုက်၊
(မအေးမေ၊)

# လယ်တီဆရာတော်
# ဘုရားကြီး

စီရင်တော်မူသော၊ပရမတ္ထသံခိပ်လက်စွဲကို၊
ပါဠိဆရာ-မောင်ပန်းသာသည်၊
သဘောအဓိပ္ပါယ်မဘက်၊
သက်သက်သရုပ်ဖြင့်၊ရေးသားစီမံအပ်သော

## ပရမတ္ထသံခိပ်အဖြေကျမ်း

(ဒုတိယတွဲ ၃-မိုင်း၊)
ပဋ္ဌမနှိပ်ခြင်း စာအုပ်ရေ ၁၀၀၀၊
(စာအုပ်ရှင်-ကိုဇွဲဂုံ၊)

၁၂၈၈-ခု၊ ဂါဆိုလအငေ့ွင်း၊ ပုံနှိပ်သည်၊

မော်လမြိုင်မြို့၊
ဂမ္ဘာပူရစာပုံနှိပ်တိုက်၊

၁၉၀၆-ခု၊ ဇူလိုင်လ၊

## လယ်တီဆရာတော်ဘုရားကြီး

ရေးသားတော်မူသောပရမတ္ထသံခိပ်ကျမ်းကို
သရုပ်သဘာဝတို့ဖြင့်၊လွယ်လင့်တကူ
မေးတတ်ဖြေတတ်စေခြင်းငှါ၊
ရင်းဆရာတော်ဘုရားကြီး၏တပည့်
ကွမ်းခြံကုန်းမြို့ကွင်းချောင်းဘုန်းတော်ကြီး

**ဦးသုရိန္ဒ**

ရေးသားစီရင်အပ်သော

**ပရမတ္ထသံခိပ်အဖြေ။**

ဖုဇွန်ထောင်-ညောင်ကုန်းဆရာတော်၊
ပါဠိဆရာဦးဖြေတို့သုတ်သင်ပြင်ဆင်သည်။

ရန်ကုန်မြို့၊
၂၅လမ်း-စာဆိုတန်း။တိုက်နံပါတ် ၁၇-၁၈။
ပြည်ကြီးမဏ္ဍိုင်-ဗိဋကတ်ပုံနှိပ်တိုက်။
၁၂၈၉ ခု၊တော်သလင်းလ၊

## လယ်တီဆရာတော်

ရေးသားမြှုပြင်စီရင်အပ်သည့်
ပရမတ္ထသံခိပ်ကျမ်းကို
လေ့လာသူတို့
ကြည့်ရှုလွယ်စေရန်
ပုဒ်မနံပါတ်ဂဏန်းညွှန်ပြ၍
ပုံနှိပ်အပ်သော

**သင်္ဂြိုဟ်ပါဠိ**

**ပါဠိဆရာဦးဖြေ**

တြိးကြပ်ပြင်ဆင်ပုံနှိပ်သည်။

ရန်ကုန်မြို့၊
၂၅လမ်း-စာဆိုတန်း။တိုက်နံပါတ် ၁၇-၁၈။
ပြည်ကြီးမဏ္ဍိုင်-ဗိဋကတ်ပုံနှိပ်တိုက်၊
၁၂၇၂-ခုနှစ်၊ပဌမဝါဆိုလ၊

တေ (း) ပရိတ္တေန နသန္တိ၊ ယထေဝ ဒွါရသာဃိ ကာ။

တထေဝ ဝိနသိဿန္တိ၊ မညေ ကုမာရိသင်္ဂမာ။

ဤဂါထာကိုအနက်ပြန်လျှင် နှစ်မျိုးနှစ်ထွေရ၏။ ရှေးက ကျည်းကန်ရှင်ကြီးတို့လည်း ဤသို့ ပါဠိမြန်မာနှစ်နက်ထွက်သောဂါထာမျိုးကို စပ်ဆိုခဲ့ဖူးသည်။ ပထမအနက်မှာ ဂါထာပါဠိ၏ တိုက်ရိုက်အနက်ဖြစ်ပြီး၊ ဒုတိယအနက်မှာ မြန်မာအသံကိုထည့်ထား၍ ထိုအသံအတိုင်း အဓိပ္ပာယ် ဖော်ယူရသော ဂါထာမျိုးဖြစ်သည်။

ပထမအနက်မှာ–

ဒွါရသာဃိ ကာ–တံခါးဝတွင်၊ တေ (း) ပရိတ္တေန–ထွက်,ဝင်ပေါင်းစပ် အကျဉ်း အကြပ်မိနေကုန်သောသူတို့သည်၊ တေ(း)ပရိတ္တေန–ယုတ်မာမိုက်ရူး သုံးဦးသော အစောင့်အရှောက်ကြောင့်၊ နသန္တိ ယထေဝ–လိုရာမရောက် တံခါးပေါက်၌ ကန်ကြောက်တိုးခပ် ပိညှပ်ပျက်စီးကုန်သကဲ့သို့၊ တထေဝ–ထို့အတူသာလျှင်၊ ကုမာရိသင်္ဂမာ–စက်ဆုပ်ကွယ်လီ မာရ်နတ်ရှိ၍၊ မာရ်၏နောက်တည် မာရ်စစ်သည် တို့သည်၊ ဝိနသိဿန္တိ မညေ–ပေါင်းထွေးရောစပ် အထပ်ထပ်ဖြင့် ပိညှပ်ပျက်စီး ကုန်လိမ့်မည်ဟုထင်မိ၏–ဖြစ်ပါသည်။ *၁

ဤဂါထာကိုပင် မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးအာဘော်ကျ လယ်တီပဏ္ဍိတတစ်ဦးတည်း နားလည်စေသောအနက်မှာ ဤသို့ဖြစ်သည်။

ဒွါရသာဃိ ကာ–ဒွါရဂိုဏ်းဝင်သံဃာတို့သည်၊ တေးပရိတ္တေန–တေးပရိတ်ကြောင့် (တစ်နည်း)ပရိတ်တေးကြောင့်၊ *၂ နသန္တိ ယထေဝ–ပျက်စီးကုန်သကဲ့သို့၊ တထေဝ– ထို့အတူသာလျှင်၊ ကုမာရိသင်္ဂမာ–သတို့သမီးကလေးတည်းဟူသောမာရ်စစ်သည် တို့သည်၊ ဝိနသိဿန္တိ မညေ–ပေါင်းစပ်ခြင်းဖြင့် သင်လယ်တီပဏ္ဍိတ ပျက်စီး လိမ့်မည်ဟုထင်မိ၏–ဟူ၍ဖြစ်ပါသည်။

အထက်ပါဂါထာ လယ်တီပဏ္ဍိတ၏လက်သို့ရောက်သောအခါ ဖတ်ရှုပြီး၊ လယ်တီပဏ္ဍိတ ကိုယ်တော်က– 'မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးသည် အစိုးရိမ်လွန်တော်မူခြင်းသာဖြစ်သည်။ မဟာမြင့်မိုရ်တောင်ကြီးသည် ကမ္ဘာကိုဖျက်သောလေကြမ်းကြီးကြောင့် တုန်လှုပ်သော် တုန်လှုပ် ရာ၏။ မိမိလယ်တီပဏ္ဍိတသည် ကာမဂုဏ်အာရုံတည်းဟူသောလေအဟုန်ကြောင့် မည်သို့မျှ ပျက်စီးယိမ်းယိုင်လိမ့်မည်မဟုတ်ကြောင်း' ပြောကြားခဲ့သည်။

---

*၁ ဝိသုဒ္ဓါရုံထေရုပ္ပတ္တိကထာနှင့် ထေရဘာသိတပကိဏ္ဏကဂါထာ။ (စာမျက်နှာ–၁၀၀)။

*၂ ၁၂၃၅–ခုနှစ်က ထိန်တောရှာကြီး၌ ဆရာစိသည် ပရိတ်ကို သာယာနာပျော်ဖွယ်ဖြစ်အောင် အသံနေအသံထားဖြင့် ဆိုစေရာမှ 'တေးပရိတ်' ပေါ်လာပါသည်။ အင်ဖိုရုံဆရာတော်ကြီးထံ ထိုတေးပရိတ်အကြောင်းလျှောက်ထားသော် ဆရာ တော်ကြီးက ရဟန်းတို့မှာ သရဘည ခေါ် ၃၂–ပါးသောရွတ်နည်းရွတ်ပုံနှင့် အလွန်မဆွဲမငင် ကြည်ညိုဖွယ် သာယာ စွာရွတ်သော် အပ်၏။ လူတို့မှာ အာယတကီတ ခေါ် အလွန်ဆွဲ၍ရွတ်သော်လည်း မအပ်ဟုမရှိ၊ အပ်သည်သာ–ဟု မိန့်ကြားတော်မူပါသည်။ အရှင်သောဘန၏ မဟာဒွါရနိကာယသာသနဝံသဒီပနီ။ (စာမျက်နှာ ၃၉၇–၄၀၀)။

သို့ပြောကြားသည့်အတိုင်းပင် အောက်ပါဂါထာတစ်ပုဒ်ကိုရေးဖွဲ့၍ မဟာဝိသုဒ္ဓါရုံဆရာတော် လက်တော်အရောက် ဆက်ကပ်ခဲ့ပါသည်။

မဟာနေရု ပကမ္ပေယျ၊ ကပ္ပနာသန, ဝါယုနာ။
ဧဝံ သတိ နကမ္ပေယျ၊ ပဏ္ဍိတော ကာမဝါယုနာ။*[၁]

မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးသည် လယ်တီပဏ္ဍိတကိုယ်တော်အား သတိပေး၍ မရသည့်အခါ ညီရင်းသဖွယ်ချစ်ခင်သည့် လယ်တီဆရာတော်ထံသို့လည်း အောက်ပါ သတိပေး ဂါထာတစ်ပုဒ်ကိုရေးဖွဲ့ကာ ပေးပို့တော်မူခဲ့ပါသည်။

ယထာပိ ဗလဝါ ခဂ္ဂေါ၊ ဥက္ခိပျ ပုရတော ဌိတေ။
ပစ္ဆာဂေ ပုတ္တေ မာရေတိ၊ တထာ ထေရောပိ ထာမဝါ။

အနက်မှာ- 'ဗလဝါ-ခွန်အားဗလပြည့်ဝကြီးမားသော၊ ခဂ္ဂေါ-ကြံ့သတ္တဝါသည်၊ ပုရတော-ရှေ့၌၊ ဌိတေ-တည်နေကုန်သောဝတ္ထုတို့ကို၊ ဥက္ခိပျ-ကြွချီပင့်မြှောက် မိမိနောက် သို့ ပစ်ပေါက်တော်မူပြီး၍၊ ပစ္ဆာဂေ-နောက်၌မကွာ လိုက်လာကုန်သော၊ ပုတ္တေ-သားသမီးတို့ကို၊ မာရေတိယထာပိ-သေစေသကဲ့သို့၊ တထာ-ထို့အတူ၊ ထာမဝါ-ဗလခွန်အား ကြီးမားသန်စွမ်းသော၊ ထေရောပိ-ကမ္ဘာမဆုံ ဂုဏ်ရောင်နှံ့၍ သင်းပျံ့ထင်ပေါ် မထေရ်ကျော်သည်လည်း၊ ပစ္ဆာဂေ-နောက်တော်ပါးမှလိုက်ကုန်သော၊ ပုတ္တေ-တပည့်သားတို့ကို၊ မာရေတိ-သေစေ၏'-ဟုဖြစ်သည်။*[၂]

ဤဂါထာကို လယ်တီဆရာတော်ကြီးဖတ်ရှုရသောအခါ အောက်ပါအတိုင်းမိန့်ကြားတော် မူခဲ့ပါသည်။

'အိမ်း...လယ်တီတိုက်မှာစာချနေစဉ်က မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏အဆုံး အမကိုရခဲ့လျှင် နယ်လှည့်ပြီး တရားဟောမထွက်ဖြစ်ပါဘူးကွယ်။ ခုတော့ နယ်ထွက်ပြီး တရားဟောနေတာနဲ့ကြုံလို့ တဗိုလ်ထဲကျန်သော်လည်း ဆက်လက်ပြီး နယ်လှည့် တရားဟောရဦးမှာပဲ။ အေး-စစ်တိုက်ရသည်ဆိုတော့ ကိုယ့်ဖက်ကလည်းကျဆုံးရ မြဲပေါ့၊ ကိုယ်စစ်ဆင်ချိန်ဆိုတာ ကိုယ့်ဖက်သူ့ဖက် ကျဆုံးမြဲဓမ္မတာပေပဲ'-*[၃] ဟူ၍ ဖြစ်ပါသည်။

ဤသို့ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးထံမှ သတိပေးသောဂါထာကြောင့် လယ်တီဆရာ တော်ကြီးသည် မိမိတပည့်များကိုလေ့လာတော်မူရာ မူပျက်လောက်အောင်မတွေ့ရသော်လည်း မည်သည့်မြို့ရွာသို့မျှမကြွဘဲ ပျဉ်းမနားမြို့တစ်မြို့တည်းမှာသာ သံခိပ်သင်ပေးနေသော လယ်တီ ပဏ္ဍိတ၏ထူးခြားချက်ကို ထိုအခါကပင်သတိပြုမိတော်မူခဲ့ပါသည်။

---

*[၁] လယ်တီဦးလှပိုင်၏ လယ်တီဂန္ထ ဝင်ကျော်များ။ (စာမျက်နှာ-၁၈၂)။

*[၂] ဝိသုဒ္ဓါရုံထေရုပ္ပတ္တိကထာနှင့် ထေရဘာသိတပကိဏ္ဏကဂါထာ။ (စာမျက်နှာ-၁၀၀)။

*[၃] လယ်တီဦးလှပိုင်၏ လယ်တီဂန္ထ ဝင်ကျော်များ။ (စာမျက်နှာ-၁၈၅)။

### ပဋ္ဌိစ္စသမုပ္ပါဒ်အသင်း

ပရမတ္ထသံခိပ်အသင်းများထွန်းကားလာပြီးနောက် ထပ်မံ၍ဖွဲ့စည်းခဲ့သောအသင်းကား ပဋိစ္စသမုပ္ပါဒ်အသင်းဖြစ်သည်။ လယ်ကီဆရာတော်ကြီး မဇ္ဈိမဒေသသို့ကြွတော်မူရန် မန္တလေးမြို့မှ ရန်ကုန်မြို့သို့ မီးရထားဖြင့်ကြွသွားရာလမ်းခရီး၌ရေးဖွဲ့တော်မူခဲ့သော ပဋိစ္စသမုပ္ပါဒ်လင်္ကာ(၁၃)ပုဒ်တို့ကို စုပေါင်းကျက်မှတ်ကြသည့်အသင်းအဖွဲ့ဖြစ်သည်။ ဤပဋိစ္စသမုပ္ပါဒ်အသင်းကိုလည်း အေဒီ ၁၉၀၅–ခုနှစ်တွင် မြင်းခြံမြို့နှင့် မိတ္ထီလာမြို့၊[*၁] အေဒီ ၁၉၀၆–ခုနှစ်တွင် မန္တလေးမြို့၊[*၂] ထို့နောက် ဇလွန်မြို့အပိုင် ဒေါင့်ကြီးရွာ[*၃]–စသည်တို့တွင်လည်း ဖွဲ့စည်းပေးတော်မူကြောင်းသိရသည်။[*၄]

### ဓာတ်ကမ္မဋ္ဌာန်းကျမ်းသစ်

လယ်တီဆရာတော်ကြီးသည် ၁၂၆၈–ခုနှစ်၊ ပြာသိုလ(အေဒီ ၁၉၀၆–ခုနှစ်၊ ဒီဇင်ဘာလ) အတွင်း ဝါးခယ်မမြို့ နယ်ပိုင်ဝန်ထောက်မောင်ဘဘွား၏ပင့်ဆောင်ချက်အရ ဝါးခယ်မမြို့သို့ ကြွတော်မူပါသည်။ ဝါးခယ်မမြို့သို့ရောက်တော်မူလျှင် ဘုရားကြီးတန်ဆောင်းအတွင်း၌ (၈)ရက် ခန့်သီတင်းသုံးတော်မူပြီး၊ ညစဉ် ဝိပဿနာဘာဝနာပွားများကြရန် ဝိပဿနာတရားဒေသနာ တို့ကိုဟောကြားတော်မူပါသည်။ လယ်တီဆရာတော်ကြီးက ဝိပဿနာတရားဟောကြားတော် မူသောအခါ ဝတ်အသင်းသူအသင်းသားတို့ ဘုရားဝတ်တက်ကြရာတွင် နောက်ဆုံး 'သဗ္ဗေသတ္တာ' စသော မေတ္တာပို့တို့ကိုရွတ်ဆိုကြပြီးလျှင် ဆက်လက်၍ ဝိပဿနာဘာဝနာပွားများကြရန်နှင့် ရွတ်ဆိုကြရန် ကမ္မဋ္ဌာန်းလင်္ကာတို့ကို ဆရာတော်ကြီးထံ ဝတ်အသင်းခေါင်းဆောင် မအူပင်မြို့ နယ်ပိုင်ဝန်ထောက်မောင်ဖူဝံက လျှောက်ထားဘောင်းခံခဲ့သည်။ ဤလျှောက်ထားချက်အရပင် ဝါးခယ်မမြို့၌ ခေတ္တသီတင်းသုံးနေတော်မူစဉ် ပဋိသမ္ဘိဒါမဂ်ပါဠိတော်လာဒေသနာနှင့်အညီ– 'အတ္တိ ဣမသ္မိံ မေ ကာယေ ပထဝီကာယာ အာပေါကာယာ' အစချီသော ဓာတ်ကမ္မဋ္ဌာန်း ပါဠိတော်နှင့်အနက်တို့ကို ရေးသားပေးတော်မူပါသည်။[*၅]

### ဓာတ်ကမ္မဋ္ဌာန်းအဖွဲ့

လယ်တီဆရာတော်ကြီးက ဓာတ်ကမ္မဋ္ဌာန်းပါဠိနှင့်အနက်တို့ကို ဝတ်အသင်းသူအသင်းသားများ ဘုရားဝတ်တက်အပြီး ရွတ်ဆိုစီးဖြန်းကြရန်ရည်သန်၍ ရေးသားပေးတော်မူခဲ့သည်

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၅၂)။

*၂ ယင်း။ (စာမျက်နှာ–၅၈)။

*၃ ယင်း။ (စာမျက်နှာ–၁၄၈)။ ဇလွန်မြို့ ဒေါင့်ကြီးရွာတွင် ပဋိစ္စသမုပ္ပါဒ်အသင်းဝင်ပေါင်း(၄၅၀)ရှိကြောင်းသိရသည်။

*၄ စန်းမြမြ၏ ပထမလယ်တီဆရာတော်ဘုရားကြီး၏ စွမ်းဆောင်ချက်သမိုင်း။ ၁၉၇၄–ခုနှစ်။ (လက်နှိပ်စက်မှု)။ (စာမျက်နှာ–၄၆)။ ညိုညိုစိုး၏ လယ်တီဆရာတော်၏ ဘဝနှင့်စာပေ။ ၁၉၈၁–ခုနှစ်။ (လက်နှိပ်စက်မှု)။ (စာမျက်နှာ–၂၂)။

*၅ လယ်တီဆရာတော်ကြီး၏ ဓာတ်ကမ္မဋ္ဌာန်းကျမ်းသစ်။ သုဓမ္မဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၁၇–ခုနှစ်။ (စာမျက်နှာ–နိဒါန်း)။ ဤကျမ်းအမည်နှင့်စပ်၍ လယ်တီဆရာတော်ကြီးသည် မန္တလေးဒေါ်ပုံအား သက္ကရာဇ်–၁၂၅၈(အေဒီ–၁၈၉၇)ခုနှစ်က ပုဗ္ဗောဝါဒကမ္မဋ္ဌာန်းအမည်ဖြင့် ဓာတ်ကမ္မဋ္ဌာန်းကျမ်းတစ်စောင်ကို ရေးသားတော်မူခဲ့ပြီးဖြစ်၍၊ ဤကျမ်းကို ဒုတိယအကြိမ် ရေးသားခြင်းဖြစ်သဖြင့် ဓာတ်ကမ္မဋ္ဌာန်းကျမ်းသစ်–ဟူ၍ အမည်ပေးခြင်းဖြစ်ရာသည်။

ဖြစ်သော်လည်း၊ အချို့သောဝတ်အသင်းတို့က ဤဓာတ်ကမ္မဋ္ဌာန်းကို အသီးအခြားအားထုတ်စီးဖြန်းကြပြီး၊ နောင်သောအခါ၌ ဓာတ်ကမ္မဋ္ဌာန်းအဖွဲ့-ဟူ၍ ဝိပဿနာဘာဝနာရှုသောအဖွဲ့တစ်ခုကိုပင်တည်ထောင်ခဲ့ကြသည်။

ဤဓာတ်ကမ္မဋ္ဌာန်းအသင်းကိုကား မြို့တိုင်းရွာတိုင်းတွင်ဖွဲ့စည်းကြောင်း အထင်အရှားမသိရသော်လည်း ပျဉ်းမနားမြို့၌ လယ်တီဆရာတော်ကြီးကိုယ်တော်တိုင်ဖွဲ့စည်းပေးကြောင်းနှင့် အသင်းသားပေါင်းသုံးရာခန့်ရှိကြောင်း၊ ထိုအသင်းတွင် မမိလေး၊ မမိတ်ကြီးတို့ ဓာတ်ကမ္မဋ္ဌာန်းကျမ်းကိုအာဂုံရသူများဖြစ်ကြောင်း သိမီလိုက်သူများကမိန့်ကြားကြပါသည်။[*၁]

နွားသားရှောင်ကြဉ်ရေးအသင်း

လယ်တီဆရာတော်ကြီးသည် နိုင်ငံအဝန်းလှည့်လည်၍ တရားပွဲများကျင်းပတော်မူရာဝယ် နွားသားရှောင်ကြဉ်ရေးတရားကိုလည်း အခွင့်သင့်တိုင်းဟောတော်မူပါသည်။ ဆရာတော်ကြီးဟောကြားတော်မူချက်အရ တရားနာလာသူတို့တွင် ရက်ပိုင်း,လပိုင်း,နှစ်ပိုင်း၊ အချို့က ရာသက်ပန်နွားသားကျွဲသား မစားမသောက်တော့ပါ၊ ရှောင်ကြဉ်ပါတော့မည်'ဟု အာမခံလာကြကာ မိမိတို့အမည်စာရင်းကိုလည်း ပေးသွင်းကြပါသည်။ ထိုအခါက လယ်တီဆရာတော်ကြီး၏တရားပွဲများတွင် 'ယခုည တရားပွဲအတွင်း နွားသားမစားမသောက်ပါ'ဟု ကတိပြုရှောင်ကြဉ်သူဦးရေမည်မျှရှိကြောင်းကိုပင် ကြေညာလေ့ရှိပါသည်။ အမြို့မြို့အရွာရွာတို့တွင် ကောက်ခံရသောနွားသားရှောင်ကြဉ်သူဦးရေတို့တွင် အေဒီ ၁၉၀၆-ခုနှစ်၊ ဒီဇင်ဘာလတွင် ပန်းတနော်မြို့သို့ လယ်တီဆရာတော်ကြီးရောက်ရှိရာ ကျွဲနွားရှောင်ကြဉ်သူ ၇၆၃-ယောက်ရှိကြောင်းသိရသည်။[*၂]

နွားသားရှောင်ကြဉ်သူပေါ်များလာသည်နှင့်အမျှ နွားသတ်ရမှုမှာလည်းနည်းပါးလာတော့သည်။[*၃] ပမာအားဖြင့် ပြည်မြို့တွင် ရှေးအခါက တစ်နေ့လျှင် နွား ၁၄-ကောင်သတ်ဖြတ်ရောင်းချရာမှ ဆရာတော်ကြီး၏မေတ္တာရပ်ခံချက်ကြောင့် နွားသားရှောင်ကြဉ်သူများလာသောအခါ အေဒီ ၁၉၀၆-ခုနှစ်အတွင်း တစ်နေ့လျှင် နွားနှစ်ကောင်,သုံးကောင်သာ သတ်ဖြတ်ရတော့သည်။[*၄] ထို့ပြင် အသတ်ခံရအံ့ဆဲဆဲနွားများကိုလည်း အချို့က အဘယဒါနအဖြစ်ဝယ်ယူပြီး ဆရာတော်ကြီးထံလာရောက်၍လှူလေ့ရှိသည်။[*၅] ဤသို့ ဆရာတော်ကြီးထံ နွားများလာရောက်လှူဒါန်းသည့်အတွက် ထိုနွားများကိုထိန်းသိမ်းစောင့်ရှောက်ကြရာမှစ၍ အချို့သောမြို့ရွာတို့တွင်

---

[*၁] ပျဉ်းမနားမြို့ ပထမလယ်တီစံကျောင်းဆရာတော်ဦးဥ ယျ၏ (၃၊ ၃၊ ၁၉၇၄)နေ့ မိန့်ကြားချက်ဖြစ်သည်။ စန်းမြမြ၏ ပထမလယ်တီဆရာတော်ဘုရားကြီး၏ စွမ်းဆောင်ချက်များသမိုင်း။ ၁၉၇၄-ခုနှစ်။ (စာမျက်နှာ-၆၁)။

[*၂] လယ်တီဆရာတော်ဘုရားကြီးအား ကြည်ညိုလေးမြတ်သည့်အကြောင်းကောင်းချီးသြဘာစာ။ မဟာဗောဓိသတင်းစာ။ အမှတ်-၆၊ နံပါတ်-၇၄။ ၁၂၊ ဇန်နဝါရီလ၊ ၁၉၀၇-ခုနှစ်။ (စာမျက်နှာ-၈၈၄)။

[*၃] စန်းမြမြ၏ ပထမလယ်တီဆရာတော်ဘုရားကြီး၏ စွမ်းဆောင်ချက်များသမိုင်း။ ၁၉၇၄-ခုနှစ်။ (လက်နှိပ်စက်မူ)။ (စာမျက်နှာ-၅၃)။

[*၄] ပြည်မြို့သတင်း။ မဟာဗောဓိသတင်းစာ။ အမှတ်-၆၊ နံပါတ်-၂၅။ ၁၆၊ ဇူလိုင်လ၊ ၁၉၀၆-ခုနှစ်။ (စာမျက်နှာ-၂၉၄)။

[*၅] ရန်ကုန်မြို့တွင် ဆရာတော်ကြီးအားလာ၍လှူသောနွားများကို ဘောက်ထော်နွားခြံတွင်သွား၍တစ်ဆင့်လှူကြကြောင်း အမှတ်အသားရှိသည်။

## ဇီဝိတဒါန၊ အဘယဒါန၊ ဘေးမဲ့သက်လွှတ်အလှူတော်ကြီးပြုကြပါ












လယ်တီဆရာတော်ကြီးသည် နွားသတ္တဝါများကိုကယ်တင်စောင့်ရှောက်တော်မူခြင်းနှင့်စပ်၍
ဝါတွင်းကာလအတွက် ကာတွန်းဆရာကြီးရွှေတလေး(ဦးဘကလေး)ရေးဆွဲခဲ့ပုံ

နွားသားရှောင်ရေးအဖွဲ့ ပေါ်ပေါက်ခဲ့ပြီး၊ အချို့သောမြို့ရွာတို့တွင် နွားအလှူခံသော တရားဟော ဆရာကိုပင်ခန့်ထားခဲ့ကြသည်။*[၁]

မန္တလေးသို့

လယ်တီဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၆၈–ခုနှစ်၊ ပြာသိုလ (အေဒီ ၁၉၀၆–ခုနှစ်၊ ဒီဇင်ဘာလ)တွင် မန္တလေးမြို့သို့ကြွတော်မူပါသည်။ လယ်တီဆရာတော်ကြီး မန္တလေးမြို့သို့ ရောက်တော်မူသောအခါ ပညာဝန်ဦးကျော်ရန်နှင့် လူကြီးလူကောင်းအပေါင်းတို့က ကြိုဆိုကြပြီးလျှင် မန္တလေးမြို့ ချမ်းအေးသာစံရပ် (၂၉–လမ်း)၌တည်ရှိသော ဗုဒ္ဓသာသနာနုဂ္ဂဟ*[၂] အထက်တန်းကျောင်းသို့ပင့်ဆောင်သွားကြသည်။ ထိုကျောင်းမှာပင်တည်းခို၍ ညစဉ်တရားပွဲကြီးများကို ကျင်းပခဲ့သည်။

နောက်တစ်ရက်တွင် စိန်ပန်းရပ်၊ ကျောင်းဒကာကြီးဦးသက်ရှည်*[၃] တို့သားအဖ ပိုင်ဆိုင်သော မစိုးရိမ်ဥယျာဉ်ကြီး*[၄] အတွင်းသို့ကြွပြီး တရားပွဲပြုလုပ်ရာ လူပရိသတ်များစွာလာရောက်နာယူကြလေသည်။ ထိုစဉ်အခါက မစိုးရိမ်ဥယျာဉ်ကြီးတွင် ကျောင်းတိုက်ဆောက်လုပ်ရန်ပြင်ဆဲဖြစ်၍ ဝင်းတစ်ပြင်လုံးမြေပြင်ကြီးသာရှိသေးသည်။ ဥယျာဉ်ကြီးအလယ်ရှိရေကန်ကြီးပင် ဖို့လက်စဖြစ်သည်။*[၅] အလယ်တိုက်ကြီးဟုခေါ်သော ပထမသာသနနယူပဒေသကျောင်းနှင့် ကျောင်းအရှေ့ပေါက်အဝင်မြောက်ဘက်ရှိ ပါဠိနယူပဒေသကျောင်းတို့မှာ ဆောက်လုပ်ရန်ပြင်ဆဲဖြစ်သည်။*[၆] ဤသို့ မစိုးရိမ်ကျောင်းတိုက်ဖြစ်လာမည့် မစိုးရိမ်ဥယျာဉ်ကြီးတွင် လယ်တီဆရာတော်ကြီးသီတင်းသုံး၍*[၇] တရားဟောပြောတော်မူရာတွင် တရားနာယူသူများပြားလာခြင်းအကြောင်းကို ဆရာတော်ကြီးက ဦးကျော်ရန်အား–

---

*[၁] ဆရာကြီးလယ်တီဦးလှတင် (၄၊ ၃၊ ၁၉၇၉) နေ့က ပြောပြချက်ဖြစ်သည်။

*[၂] မန္တလေးမြို့ ၃၂–လမ်းနှင့် ၃၃–လမ်းကြား၊ ၈၃–လမ်းနှင့် ၈၂–လမ်းကြား၊ ရှေးက တိုင်တားမင်းကြီးမြေကို ဝယ်ယူပြီး ယောက်ျားလေးများအတွက်ဆောက်လုပ်ခဲ့သောကျောင်းဖြစ်သည်။ ဗုဒ္ဓသာသနာနုဂ္ဂဟ (Buddha Thathana Nuggaha) ကို အင်္ဂလိပ်စာလုံးဖြင့် အတို 'BTN' ကျောင်းဟုခေါ်တွင်ခဲ့ကြသည်။ ယခု အမှတ်(၃၂) အထကကျောင်းနေရာဖြစ်သည်။ နေထွတ်၏ မန္တလေးအဘိဓာန်။ ကြီးပွားရေးစာအုပ်တိုက်၊ မန္တလေးမြို့။ ၁၉၉၉–ခုနှစ်။ (စာမျက်နှာ–၂၀၁)။

*[၃] ဦးသက်ရှည်နှင့် သား လက်ဖက်ဦးကျော်၊ ဆားဦးကျော်ဟုထင်ရှားသော မစိုးရိမ်ကျောင်းဒကာသူဌေးကြီးသားအဖကို ဆိုလိုပါသည်။လူထုဒေါ်အမာ၏ မန္တလေးသူမန္တလေးသားများ။ လူထုပုံနှိပ်တိုက်၊ မန္တလေးမြို့။၁၉၉၃–ခုနှစ်။ (စာမျက်နှာ ၂၂–၃၁)။

*[၄] ရှေးက မြို့ဝန်ဦးပေစိပိုင်သောဥယျာဉ်ဖြစ်သည်။ ဤဥယျာဉ်အတွင်း ဦးပေစိ၏မြေကလေးကျောက်ဆိုးပေါက်၍ တဲနှင့်ထားပြီး ဆေးကုသရာ၊ သုံး,လေးရက်ကြာလျှင် မစိုးရိမ်ရသောအခြေသို့ရောက်ရှိလာ၍ ဤဥယျာဉ်ကို မစိုးရိမ် ဥယျာဉ်ဟုတွင်သည်။ နောင် ဤဥယျာဉ်အတွင်း ကျောင်းတိုက်တည်ပြီးသော် မစိုးရိမ်တိုက်ဟူ၍သာတွင်သည်။ အရှင်ရာဇဓမ္မာဘိဝံသ၏ ဘဒ္ဒန္တ သူရိယာဘိဝံသ၏ ထေရုပ္ပတ္တိကထာ။ သာသနာရေးဦးစီးဌာန၊ရန်ကုန်မြို့။၁၉၇၆–ခုနှစ်။(စာမျက်နှာ–၃၀)။

*[၅] ထိုရေကန်ကြီးဖို့ပြီး အလယ်တိုက်ကြီးကိုဆောက်လုပ်ခဲ့ခြင်းဖြစ်သည်။

*[၆] မစိုးရိမ်တိုက်ကြီးကို သက္ကရာဇ်–၁၂၆၉ (အေဒီ–၁၉၀၇)ခုနှစ်မှစ၍ ဆောက်လုပ်သည်။

*[၇] လယ်တီဆရာတော်ကြီးသည် မစိုးရိမ်၌တည်းခိုသည်ဆိုရာတွင် အလယ်တိုက်ကြီး၏ အနောက်မြောက်ထောင့်နား ရှေးကရှိနေသောရေကန်ကြီးနံဘေး၌ ယာယီတဲကျောင်းကြီးတွင် ခေတ္တသီတင်းသုံးနေတော်မူခြင်းဖြစ်ပါသည်။ အဘိဇမဟာရဋ္ဌဂုရု ဆရာတော်ကြီးဘဒ္ဒန္တ ပညာသာမိ၏ (၂၆၊ ၆၊ ၂၀၀၇)နေ့ မိန့်တော်မူချက်ဖြစ်သည်။

'မောင်ကျော်ရန်၊ မစိုးရိမ်နှင့်အဆက်အသွယ်မရခင်က မန္တလေးမြို့မှာ တရားဟောတဲ့ခါ မန္တလေးမြို့ကြီးက သိပ်လက်မခံဘူးကွယ့်။ မစိုးရိမ်နှင့်အဆက်အသွယ်ရပြီး မစိုးရိမ်မှာတည်းခိုပြီး တရားဟောတော့မှ မန္တလေးမြို့သူမြို့သားတွေက တို့တရားကိုလက်ခံကြတာ။ ဒါကြောင့် မစိုးရိမ်ဟာ တို့များရဲ့ကျေးဇူးရှင် တို့များရဲ့အောင်မြေပဲကွယ့်'–ဟူ၍ မိန့်ဆိုတော်မူခဲ့ပါသည်။

ဦးကျော်ရန်ကလည်း ဆရာတော်ကြီး၏တရားပွဲတွင် ပရိသတ်များလာရခြင်း၏အကြောင်းတွင် ဆရာတော်ကြီး၏ဒီပနီကျမ်းစာများပေါ်ထွက်လာခြင်းနှင့် မိမိတို့ ဗုဒ္ဓဘာသာသာသနာပြုသတင်းစာတွင် အပတ်စဉ်ပါရှိနေသော ဆရာတော်ကြီး၏စာပေတို့ကိုဖတ်ရှုကြရခြင်းကြောင့် 'လယ်တီဆရာတော်ကြီးကိုဖူးလိုကြ၊ ဟောကြားတော်မူသောတရားကို နာယူလိုကြသောကြောင့် ယခုကဲ့သို့ လယ်တီဆရာတော်ကြီးကြွရောက်တော်မူလာပြီဆိုသောအခါတွင် တရားနာပရိသတ်များ 'မျှော်လင့်တောင့်တဆဲ၌ ဆန္ဒပြည့်မြဲ'ဆိုသကဲ့သို့ ဆရာတော်ကြီး၏တရားပွဲသို့ တခဲနက်လာရောက်နာယူကြခြင်းဖြစ်ပါကြောင်း လျှောက်ထားပြန်ပါသည်။ ထိုအခါ ဆရာတော်ကြီးက–

'အေးကွယ့် မောင်ကျော်ရန်ရဲ့၊ ငါတို့ မန္တလေးမြို့ကိုသာသနာပြုရတာ ရှေးရှေးက ဘိုးတော်ဘုရားတို့ ရှမ်းပြည်ကိုသာသနာပြုသလိုပဲကွယ့်'ဟုမိန့်တော်မူပါသည်။

ထိုအခါ ဦးကျော်ရန်က 'ရှင်းလင်းတော်မူပါဦးဘုရား'ဟုလျှောက်ထားပြန်သော်–

'ဒီလိုကွယ့်၊ ရှမ်းကိုးဆယ့်ကိုးစော်ဘွားတွေထံ သာသနာပြုတဲ့အခါ ဘိုးတော်ဘုရားက ပိဋကတ်တော်ပေစာတွေနဲ့ အစုံလိုက်ကူးပြီးပို့နှင့်သတဲ့၊ ပိဋကတ်ပေစာတွေနှင့် အရင်လွှတ်ပြီးမှ နူးထားရသကွယ့်၊ ပြီးမှ သာသနာပြုကလိုက်ရတာကွယ့်။ တို့လဲ တို့ရေးတဲ့ဒီပနီစာအုပ်တွေအရင်ဖြန့်ပြီး၊ တို့ကို လိုလားတောင့်တလာမှ ဒီကိုလာရတာပေါ့ကွယ်'–ဟူ၍မိန့်တော်မူပါသည်။*၂

**ရန်ကုန်ကောလိပ်ဗုဒ္ဓဘာသာအသင်းတရားပွဲ**

လယ်တီဆရာတော်ကြီး သက္ကရာဇ် ၁၂၆၈–ခုနှစ်၊ တပေါင်းလဆန်း (အေဒီ ၁၉၀၇–ခုနှစ်၊ ဖေဖော်ဝါရီလ) ရန်ကုန်မြို့ ညောင်ကုန်းကျောင်းတိုက်၌သီတင်းသုံးနေတော်မူစဉ် ရန်ကုန်ကောလိပ်ဗုဒ္ဓဘာသာအသင်း (Rangoon College Buddhist Association) မှ အသင်းသားတို့က ဆရာတော်ဘုရားကြီးအားတရားချီးမြှင့်ပေးပါရန် လျှောက်ထားလာကြပါသည်။

ရန်ကုန်ကောလိပ်ဗုဒ္ဓဘာသာအသင်းကို လွန်ခဲ့သော သက္ကရာဇ် ၁၂၆၇–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၉၀၅–ခုနှစ်၊ ဇူလိုင်လ)ကပင် ရန်ကုန်ကောလိပ်၌ပညာသင်ယူနေကြသော မောင်မောင်ကြီး၊ မောင်ဘယဉ်၊ မောင်ဘဒွန်း၊ မောင်ဘအေးနှင့် မောင်စိန်လှအောင်စသည့် ဗုဒ္ဓဘာသာဝင်ကျောင်းသားကြီးတစ်စုတို့က 'ဘာသာတရားနှင့်ကင်းကွာနေလျှင် ဘာသာ, သာသနာဆုတ်ယုတ်ပြီး ယဉ်ကျေးလိမ္မာမှုအားနည်းရာသည်'ဟူသောအကြောင်းပြချက်ဖြင့် ရန်ကုန်ကောလိပ်

---

*၂ ဆရာကြီးလယ်တီဦးလှတင်၏ (၅၊ ၃၊ ၁၉၇၉)နေ့ မိန့်ကြားချက်ဖြစ်သည်။

ကျောင်းအုပ်ကြီးမစ္စတာဟန်တား(Mr. Matthew Hunter)*[၁] ထံ ခွင့်ပန်၍ဖွဲ့စည်းခဲ့ကြသည်။ ၁၂၆၈–ခုနှစ်၊ ဝါခေါင်လဆန်း ၁၂–ရက် (အေဒီ–၁၂၊ ဩဂုတ်လ၊ ၁၉ဝ၅–ခုနှစ်)တွင် အသင်းဖွင့်ပွဲပြုလုပ်ရာ ကျောင်းအုပ်ကြီးမစ္စတာဟန်တားက သဘာပတိပြုလုပ်၍ ဘိက္ခုအာနန္ဒမေတ္တေယျအရှင်က 'မြန်မာပြည်၏ဘာသာရေးလိုအပ်ချက်များ' တရား*[၂] ကို အင်္ဂလိပ်ဘာသာဖြင့် ဟောကြားခဲ့ပါသည်။*[၃] ထိုနှစ် တော်သလင်းလဆန်း ၉–ရက် (အေဒီ–၂၆၊ ဩဂုတ်လ၊ ၁၉ဝ၆–ခုနှစ်)တွင်ကျင်းပသော အသင်းအစည်းအဝေး၌ ဘိက္ခုအာနန္ဒမေတ္တေယျကပင် 'အပ္ပမာဒ' တရားတော်၊*[၄] သီတင်းကျွတ်လဆန်း ၁ဝ–ရက်အစည်းအဝေးတွင် မစ္စတာမက္ကနီး (Mr. J.F. M'kechine) က ဗုဒ္ဓဘာသာကိုလောကဓာတ်ပညာသဘောဖြင့်ကြည့်နည်း' တရားတော်၊*[၅] တန်ဆောင်မုန်းလကွယ်နေ့ (အေဒီ–၁၄၊ နိုဝင်ဘာလ၊ ၁၉ဝ၆–ခုနှစ်) အစည်းအဝေးတွင် ဘိက္ခုအာနန္ဒမေတ္တေယျကပင် 'ကမ္မ' တရားတော်၊*[၆] တပို့တွဲလဆုတ် ၇–ရက် (အေဒီ–၃၊ ဖေဖော်ဝါရီလ၊ ၁၉ဝ၇–ခုနှစ်) အစည်းအဝေးတွင် ထိုအရှင်ကပင် 'ပါရမီ' တရားတော်*[၇] ကိုဟောကြားပြီးနောက်၊ တပေါင်းလပြည့် (အေဒီ–၂၅၊ ဖေဖော်ဝါရီလ၊ ၁၉ဝ၇–ခုနှစ်)တွင်မူ ရန်ကုန်မြို့သို့ခေတ္တရောက်ရှိနေတော်မူသော လယ်တီဆရာတော်ကြီးအား တရားဟောကြားပေးပါရန် လျှောက်ထားခဲ့ခြင်းဖြစ်သည်။

တရားပွဲနေ့တွင် ဘိက္ခုအာနန္ဒမေတ္တေယျကိုယ်တော်နှင့် ရန်ကုန်ကောလိပ်ဗုဒ္ဓဘာသာအသင်းဝင်ကျောင်းသားများက ဆရာတော်ကြီးအားတရားပွဲကျင်းပရာအဆောင်သို့ပင့်ဆောင်ခဲ့ကြသည်။*[၈] ဆရာတော်ကြီးက တရားပွဲစလျှင်ပင် 'ငါးပါးသီလခံကြဦးစို့' ဟူ၍မိန့်ဆိုကာ သီလခံယူစေ၏။ ပြီးလျှင် နွားသားရှောင်ကြဉ်ရေးတရားဟောကြားရာ တရားပွဲအပြီး၌ ကောလိပ်ကျောင်းသူကျောင်းသားအများအပြားပင် ဆရာတော်ကြီးထံပါးသို့လာရောက်၍ နွားသားကို ရာသက်ပန်ရှောင်ကြဉ်ကြောင်း ကတိပြုကြပါသည်။*[၉]

---

*[၁] မစ္စတာဟန်တားသည် အင်္ဂလိပ်လူမျိုးရဟန်းတော် အရှင်အာနန္ဒမေတ္တေယျနှင့် အထူးခင်မင်ရင်းနှီးပြီး အရှင်အာနန္ဒမေတ္တေယျ၏ သာသနာပြုလုပ်ငန်းတို့ကိုလည်း ကူညီနေသူဖြစ်သည်။ သို့ဖြစ်၍ ယခု ကောလိပ်ကျောင်းသားကြီးများက တက္ကသိုလ်ဗုဒ္ဓဘာသာအသင်းတည်ထောင်ရန် ခွင့်ပန်လာခြင်းကို လိုလိုလားလားခွင့်ပြုခဲ့ခြင်းဖြစ်သည်။

*[၂] The Religious Needs of Burma.

*[၃] Bhikkhu Ananda Metteyya' A Series of Lectures given before The Rangoon College Buddhist Association. The Buddhasasana Samagama, Rangoon, Page-i, 1-14.

*[၄] Appamada or Earnestness. ibid., Page 15-24.

*[၅] Buddhism as a Science. ibid., Page 34-47.

*[၆] Kamma. ibid., Page 25-33.

*[၇] The Buddhist Virtues. ibid., Page 48-55.

*[၈] ရန်ကုန်ကောလိပ်ဗုဒ္ဓဘာသာအသင်း၏ အမည်ကို ၁၉၂၉–ခုနှစ်တွင် ရန်ကုန်တက္ကသိုလ်ဗုဒ္ဓဘာသာအသင်း–ဟု အမည်ပြောင်းလဲခဲ့ပြီး၊ ထိုအချိန်အထိ အသင်းပိုင်အဆောက်အအုံမရှိသေးဘဲ အသင်းအစည်းအဝေးနှင့် တရားပွဲတို့ကို သင့်လျော်ရာအဆောက်အအုံတစ်ခုခုတွင်ကျင်းပခဲ့ရသည်။ ရန်ကုန်တက္ကသိုလ်သမိုင်းရေးသားပြုစုရေးအဖွဲ့၏ ရန်ကုန်တက္ကသိုလ်သမိုင်း (၁၉၂ဝ–၁၉၉၅)။ ရန်ကုန်မြို့။ ၁၉၉၅–ခုနှစ်။ (စာမျက်နှာ–၁ဝ၂)။

*[၉] ဝိဇ္ဇာမောင်ဉာဏ်ရှင်၏ ရန်ကုန်တက္ကသိုလ်ဗုဒ္ဓဘာသာအသင်းကြီးသမိုင်း။ ရန်ကုန်တက္ကသိုလ်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၂၄–ခုနှစ်။ (စာမျက်နှာ–၄၆)။

ဒွါစတ္တာလီသမဝါကပ်တော်မူခြင်း

လယ်တီဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၆၉–ခုနှစ်၊ ဝါတွင်းကာလ (အေဒီ ၁၉၀၇–ခုနှစ်၊ ဇူလိုင်/ဩဂုတ်)တွင် သာယာဝတီခရိုင် မင်းလှမြို့အနီး ပက်တန်းကြီးတောရ*၁ တွင် (၄၂)ကြိမ်မြောက် ဒွါစတ္တာလီသမဝါကိုကပ်ဆိုတော်မူပါသည်။

ပက်တန်းကြီးတောရ

ပက်တန်းကြီးတောရသည် ကျောက်သားကျောက်ဆောင် ကျောက်ကမ်းပါးတို့နှင့်ဆက်စပ်လျက်ရှိသော ကျောက်တံခါးအမည်ရသော ကုန်းမြင့်တောင်တန်းတောင်စွယ်၌တည်ရှိနေပါသည်။ ဤတောရကြီးတွင် ရာသီဥတုသုံးပါးမရွေး ဂမုန်း၊ သဇင်၊ သရဖီ၊ နှင်းဆီ၊ ဇလပ်၊ ဖွန်၊ ရင်ကပ်–စသောပန်းများပွင့်လန်း၍ တောတောင်တစ်ခိုမှာစိမ်းစိုညို့မှိုင်းလျက် လွမ်းလောက်သော အင်ကြင်းမြိုင်တောရကြီးဖြစ်သည်။*၂

ဦးနရိန္ဒတွဲ့မည်ရှိ အထက်အညာမှ*၃ ရဟန်းတော်တစ်ပါးသည် မိဘနှစ်ပါးနှင့်အတူ ဤပက်တန်းတောရတည်ရာဌာနသို့ရောက်ရှိလာပြီး ကျောင်းတည်နေတော်မူသည်။ ထိုဦးနရိန္ဒသည် အထက်အညာ၌နေစဉ်က လယ်တီဆရာတော်ကြီးနှင့်ခင်မင်တော်မူကြောင်းသိရသည်။ လယ်တီဆရာတော်ကြီး ရွှေတောင်စသည်သို့ကြွစဉ်ကလာရောက်ပြီး မိမိသီတင်းသုံးရာ ပက်တန်းကြီးတောရသည် လူသူအရောက်နည်းကြောင်း၊ သွားလာရခက်ခဲကြောင်းစသည်ဖြင့် ဝိဝေကအရပ်အမှန်ဖြစ်ပုံတို့ကိုလျှောက်ထားခဲ့သည်။ သို့ဖြင့် ယခုနှစ် ၁၂၆၉–ခုနှစ်တွင် လယ်တီဆရာတော်ကြီးသည် ဤပက်တန်းတောရသို့ ဝါကပ်ဆိုရန် ရွေးချယ်တော်မူခဲ့ခြင်းဖြစ်ပါသည်။

လယ်တီဆရာတော်ကြီး ပက်တန်းကြီးတောရ၌ဝါကပ်နေစဉ် အနီးရှိရွာကလေးများသို့ ဆွမ်းခံကြွတော်မူပါသည်။ ထိုရွာကလေးများမှ ဒါယကာ,ဒါယိကာမအပေါင်းတို့ကလည်း စုပေါင်းလာရောက်တရားနာယူကြရာ၊ တရားနာသူလူဦးရေနည်းပြီး သက်ကြီးပိုင်းသာဖြစ်ကြ၍ ဆရာတော်ကြီးက ပရမတ္ထသံခိပ်ကိုမကျက်စေဘဲ ဓာတ်ကမ္မဋ္ဌာန်းကိုသာကျက်မှတ်ရန် စီစဉ်ပေးတော်မူသည်။ ထိုပက်တန်းကြီးတောရအတွင်း ဓာတ်ကမ္မဋ္ဌာန်းကိုကျက်ကြ, စီးဖြန်းကြဖြင့် သမထဝိပဿနာဘာဝနာအားထုတ်သူပေါ်များခဲ့သည်။ နောင်အခါ ရွာတို့နှင့်နီးသော ပက်တန်းအောက်ကျောင်းရှိ

---

*၁ ပဲခူးတိုင်း၊ သာယာဝတီခရိုင်၊ မင်းလှမြို့နယ်၊ ပက်တန်းကျေးရွာအုပ်စု၌ပါရှိသည်။ ပက်တန်းကြီး, ပက်တန်းလေး နှစ်ရွာရှိသည်။ တစ်ရွာနှင့်တစ်ရွာ လယ် ၁၀–ကေခန့်ခြားသည်။ ပက်တန်းကြီးကို ရှေးက ပတိုင်ကြီးဟုလည်းခေါ်သည်။ နောင်အခါ ပက်တန်း–ဟုမခေါ်ပြန်ဘဲ ကျောက်တံခါးတောင်ကိုအစွဲပြု၍ ကျောက်တံခါးတောရဟူ၍လည်းခေါ်ကြသည်။ ဤတောရကို မင်းလှမြို့နယ်၊ လက်ဆက် ကျေးရွာအုပ်စု စိန်ကန့်လန့်ကျေးရွာမှတစ်ဆင့် ဖြတ်သန်းသွားလာရသဖြင့် စိန်ကန့်လန့်တောရဟူ၍လည်းခေါ်တွင်ကြသည်။

*၂ လယ်တီဦးပဒုမနှင့် လယ်တီဦးဝိလာသတို့၏ လယ်တီတရားပေါင်းချုပ်။ မြဝတီပုံနှိပ်တိုက်၊ မင်းလှမြို့။ ၁၉၅၉–ခုနှစ်။ (စာမျက်နှာ–၁၁၃)။

*၃ မုံရွာအထက် ထန်းတပင်ရွာသားဟု အမှတ်အသားရှိသည်။ ပက်တန်းတောရဆရာတော်ဦးဥတ္တမ၏ (၁၉၊ ၁၀၊ ၁၉၉၇)နေ့ မိန့်ကြားတော်မူချက်ဖြစ်သည်။



လယ်တီဆရာတော်ကြီး၀ါကပ်သီတင်းသုံးတော်မူရာ
ပဲခူးတိုင်း၊သာယာဝတီခရိုင်၊ မင်းလှမြို့နယ်၊ ပက်တန်းကြီးရွာရှိ စိန်ကန့်လန့်တောရ



စိန်ကန့်လန့်တောရအတွင်းရှိ လယ်တီဆရာတော်ကြီးသီတင်းသုံးတော်မူခဲ့သော
တစ်ပါးနေကျောင်းသခ်မ်းပုံစံ(ယခုပြုပြင်ထားသည်။)

လယ်တီဆရာတော်ကြီး ဓာတ်ကမ္မဋ္ဌာန်းတရားဟောတော်မူသောနေရာ၌ ကျောင်းတစ်ဆောင် ဆောက်လုပ်ကာ မဟာမြိုင်တောရဓာတ်ကမ္မဋ္ဌာန်းကျောင်းဟု အမည်ပေးခဲ့ကြသည်။ ပက်တန်း တောရ၌ လယ်တီဆရာတော်ကြီးသီတင်းသုံးနေစဉ်အတွင်း ကြို့ပင်ကောက်မှဆရာတော်အချို့ ပက်တန်းတောရသို့ကြွရောက်လာကြကာ စုံစမ်းကြသည်။ လယ်တီဆရာတော်ကြီးနှင့်တွေ့ဆုံ၍ ဆွေးနွေးကြသောအခါ ပရိယတ္တိဝိသာရဒပုဂ္ဂိုလ်ဖြစ်မှန်းသိကြသဖြင့် ကျေနပ်ပြီး ပြန်ကြွသွား တော်မူကြပါသည်။

လေသာအမေးပုစ္ဆာ

လယ်တီဆရာတော်ကြီး ပက်တန်းတောရ၌ဝါကပ်ဆိုနေစဉ်အတွင်း ကရင်ပြည်နယ် ဘားအံ မြို့ လေသာကျောင်းတိုက်ဆရာတော်ထံမှ သရဏဂုံပေးခြင်း,ရဟန်းခံခြင်းအကြောင်းများနှင့် စပ်၍မေးသော လျှောက်ထားလွှာရောက်ရှိလာသည်။ ထိုအမေးနှင့်စပ်၍ လယ်တီဆရာတော် ကြီးက–

'မည်သည့်လူမျိုးမဆို ဗျဉ္ဇနဗုဒ္ဓိဆယ်ပါးနှင့် ကျ,နမှန်၍ အက္ခရာမချွတ်မချော် နိဂ္ဂဟိတ်မှာ နိဂ္ဂဟိတ်အလျောက်အသံထွက်ခြင်း၊ ဥပမာ 'သံ'ကို 'သောင်' မဖြစ် စေရ၊ 'တု'ကို 'တောက်' မဖြစ်စေရ။ 'ယော'ကို 'ယေ' စသည်မဖြစ်စေဘဲ ပါဠိ တော်ကြီးလာတိုင်း အဋ္ဌကထာကြီးများလာတိုင်း မှန်ကန်စွာရွတ်ဖတ်နိုင်လျှင် ရဟန်း, သာမဏေဖြစ်သည်သာလျှင်တည်း။ ချွတ်ချော်တိမ်းပါးခဲ့သော် မည်သည့်လူမျိုး ရွတ်ဖတ်လို့မှ ရဟန်း,သာမဏေ မဖြစ်။ လူမျိုးကိုကား ပဓာနမဟုတ်ချေ၊ အရွတ် အဖတ်သာလျှင် ပဓာနဖြစ်၏–ဟု မှတ်သားအပ်၏'–ဟူ၍ အကျဉ်းချုပ်အဖြေနှင့် တကွ အကျယ်တဝင့်ဖြေဆိုတော်မူခဲ့ပါသည်။*၁

ဝိနယသံခိပ်လက်စွဲ

လယ်တီဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၆၉–ခုနှစ်၊ ဝါခေါင် (အေဒီ ၁၉၀၇–ခုနှစ်၊ ဩဂုတ်) လတွင် 'သာသနာတော်မြတ်ကြီး၌ ပဗ္ဗဇိတဒုလ္လဘကိုရရှိပြီးကုန်သောရှင်ရဟန်းတို့နှင့် ထိုဒုလ္လဘ ကိုရလိုကြကုန်သော ရှင်,ရဟန်းလောင်းလျာပုဂ္ဂိုလ်တို့ ဝိနည်းအရာ၌ အလွယ်တကူတတ်မြောက် ကြစေရန် ရည်သန်တော်မူလျက်' ဝိနယသံခိပ်ကျမ်းကိုရေးသားတော်မူခဲ့ပါသည်။ ဤကျမ်းတွင် ဝိနည်းအဋ္ဌကထာကြီးများနှင့် ဝိနယပိဋကတ်တော်မှလိုရင်းအချက်များကို ကောက်နုတ်စုဆောင်း၍ ပြထားသည်။ ကင်္ခါအဋ္ဌကထာနှင့်ဒွေမာတိကာပါဠိတော်တို့ကို အများဆုံးကိုးကားပြီးလျှင် 'ရာ' အမှတ်အသားဖြင့် ပါရာဇိကဏ်အဋ္ဌကထာနှင့်ယင်းပါဠိတော်၊ 'စိ' အမှတ်အသားဖြင့် ပါစိတျာဒိ အဋ္ဌကထာနှင့် ယင်းပါဠိတော်–စသည်တို့ကို ကိုးကားကြောင်းသိစေပါသည်။ ပမာအားဖြင့်–

*၁ ဤအဖြေကို ၁၂၈၆–ခုနှစ်၊ နတ်တော်လ။ ရန်ကုန်မြို့။ ပြည်ကြီးမဏ္ဍိုင်ပုံနှိပ်တိုက်ရိုက် သာသနဝိသောဓနီကျမ်း၊ တတိယတွဲ။ (စာမျက်နှာ ၃၄–၄၅)တွင်ဖော်ပြထားခဲ့ပါသည်။ နောက်ထပ်ရိုက်နှိပ်ကြသော 'သာသနဝိသောဓနီကျမ်း၊ တတိယတွဲ'တို့တွင် ဤပုစ္ဆာနှင့်အဖြေ ဖော်ပြထားခြင်းမရှိကြောင်းတွေ့ရသည်။

'ရဟန်းတရားအမြွတ်ထား၊ သုံးပါးကျင့်သိက္ခာ(၄၉) ၁၉၅–ရာ။'*[၁]ဟူရာတွင်– (၄၉)သည် 'ကင်္ခါ အဋ္ဌကထာ၊ စာမျက်နှာ–၄၉'ကိုဆိုလိုပြီး၊ ၁၉၅–ရာမှာ 'ပါရာဇိကကဏ်အဋ္ဌကထာ၊ စာမျက်နှာ–၁၉၅'ကိုဆိုလိုသည်။*[၂]

သို့ပါ၍ ဤသံခိပ်ကျမ်းကို ကြည့်ရှုလေ့ကျက်ရသူတို့အဖို့မှာ ဝိနည်းပါဠိတော်နှင့် အဋ္ဌကထာတို့၌လာသော ဝိနည်းကျင့်ဝတ်တို့ကို လွယ်ကူစွာသိရခြင်း၊ ရှင်းလင်းပိုင်နိုင်စွာသိရခြင်းတည်း အကျိုးများကို ရစွမ်းနိုင်မည်ဖြစ်ကြောင်းတွေ့ရသည်။*[၃]

လယ်တီဆရာတော်ကြီးသည် ဝိနယသံခိပ်လက်စွဲကိုရေးသားတော်မူရာတွင် မူလရေးတော်မူစဉ်က အိတ်ဆောင်သဖွယ် သံခိပ်လင်္ကာ(၅၄၉)ပုဒ်သက်သက်ကိုသာ ဦးစွာရေးသားတော်မူခဲ့ပါသည်။ သို့ပါ၍ ကျမ်းပြီးနိဂုံးတွင်–

ငါးရာ့ငါးဆယ်၊ လင်္ကာချယ်၊ ဤဝယ်ပြီးကဗျာ။
ဝိနယသံခိပ်၊ ဘွဲ့တံဆိပ်၊ ခပ်နိုပ်မည်သညာ–*[၄]

စသည်ဖြင့် လင်္ကာစပ်ဆိုတော်မူခဲ့ခြင်းဖြစ်ပါသည်။ နောင်တစ်ချိန် ဤသံခိပ်တို့၏ရှင်းလင်းချက်နှင့်တကွ ဝိနယသံခိပ်ကျမ်းအကျယ်ဖွင့်*[၅] ကို ရေးသားတော်မူခြင်းဖြစ်ပါသည်။

**စစ်တွေမြို့သို့**

သက္ကရာဇ် ၁၂၆၉–ခုနှစ်၊ ပြာသိုလ (အေဒီ ၁၉၀၈–ခုနှစ်၊ ဇန်နဝါရီလ)တွင် လယ်တီဆရာတော်ကြီးသည် ရခိုင်သူဌေးကြီးဦးရဲကျော်သူ၊*[၆] ဦးရွှေသာ၊*[၇] ဆရာဝန်ကြီးဦးသာနု*[၈] တို့ပင့်လျှောက်သည့်အတွက် ရခိုင်ပြည်နယ်၊ စစ်တွေမြို့သို့ မီးသင်္ဘောဖြင့်ကြွချီတော်မူပါသည်။ ထိုစဉ်က

*၁ လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်လက်စွဲ။ ကဝိမျက်မှန်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၈–ခုနှစ်။ (စာမျက်နှာ–၁)။

*၂ ဤနေရာ၌ ကင်္ခါအဋ္ဌကထာသည် ကဝိမျက်မှန်ပုံနှိပ်တိုက်ရေးမူဖြစ်ပြီး၊ ပါရာဇိကကဏ်အဋ္ဌကထာမှာလည်း ပြည်ကြီးမဏ္ဍိုင်ရိုက်ရေးမူကိုပင်ဆိုလိုပါသည်။

*၃ လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်လက်စွဲ။ ကဝိမျက်မှန်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၈–ခုနှစ်။ (စာမျက်နှာ–၃၄)။

*၄ လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်လက်စွဲ။ ၁၂၈၈–ခုနှစ်။ (စာမျက်နှာ–၉၉)။ ဤလက်စွဲကျမ်းသည် အိတ်ဆောင်အရွယ်၊ စာမျက်နှာ '၁၀၀' ပါရှိသည်။

*၅ ယခုအသုံးပြုနေကြသော ဝိနယသံခိပ်ကျမ်းမှာ ဆိုက်ကြီး၊ စာမျက်နှာ '၁၈၅'မျက်နှာပါရှိသည်။ လယ်တီဆရာတော်ကြီး၏ ဝိနယသံခိပ်ကျမ်း။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၅–ခုနှစ်ကိုရှုပါ။

*၆ သူဌေးကြီးဦးရဲကျော်သူမှာ ထိုခေတ်က ရခိုင်ပြည်နယ်တွင် အချမ်းသာဆုံးပုဂ္ဂိုလ်ဖြစ်သည်။ မြေယာလုပ်ငန်း၊ ဆန်လုပ်ငန်း၊ ငှက်တောင်လုပ်ငန်း၊ ဖျိုင်းတောင်လုပ်ငန်း–တို့ဖြင့် ကြီးပွားချမ်းသာလာခြင်းဖြစ်သည်။ ဖလောင်းဖြူ(ဘဏ်)၏ သူ့ကိုစံထား သွေးသစ်များသို့(ဆောင်းပါး)။ ရခိုင်တန်ဆောင်မဂ္ဂဇင်း၊ အမှတ်–၈။ ၁၉၉၅–ခုနှစ်၊ ဖေဖော်ဝါရီလ။ (စာမျက်နှာ ၂၂–၂၆)။

*၇ ဦးရွှေသာသည် ဦးရဲကျော်သူ၏ သတ္တမမြောက်သားဖြစ်ပြီး ဦးရဲကျော်သူကွယ်လွန်ပြီးနောက် ရခိုင်ပြည်နယ်တွင် ပထမဆုံးအမျိုးသားပိုင်ဘဏ်ကိုတည်ထောင်သူဖြစ်သည်။ ယင်း။ (စာမျက်နှာ–၂၆)။

*၈ ဘိက္ခုအာနန္ဒမေတ္တေယျအား စစ်တွေမြို့တွင် ရှေးဦးစွာရှင်သာမဏေပြုပေးသော ဆရာဝန်ကြီးဖြစ်သည်။



လယ်တီဆရာတော်ကြီးအား ရခိုင်ပြည်နယ်၊စစ်တွေမြို့သို့
ပင့်ဆောင်ခဲ့သော
သူဌေးကြီးဦးရဲကျော်သူ



ဆရာဝန်ဦးသာနု



လယ်တီပဏ္ဍိတကိုယ်တော်အား လူမထွက်ရန်ဆုံးမတော်မူခဲ့သော မင်းလှမြို့ ဓမ္မာရုံစံကျောင်း

လယ်တီဆရာတော်ကြီးကို စစ်တွေမြို့ကကြိုဆိုကြပုံများနှင့် လယ်တီဆရာတော်ကြီး တရားဓမ္မဟောကြားတော်မူပုံတို့ကို ထိုခရီးစဉ်၌လိုက်ပါခဲ့ရသော လယ်တီပဏ္ဍိတက အောက်ပါအတိုင်း အသေးစိတ်မှတ်တမ်းတင်ထားပါသည်။

ကျေးဇူးရှင်လယ်တီဆရာတော်ကြီးသည် မြန်မာသက္ကရာဇ် ၁၂၆၉–ခု၊ ပြာသိုလဆန်း ၆–ရက် (အေဒီ–၈၊ ဇန်နဝါရီလ၊ ၁၉၀၈–ခုနှစ်) နံနက် (၆)နာရီအချိန်တွင် စစ်တွေမြို့သို့ကြွရန် စစ်တွေသွားသင်္ဘောကြီးစီးကာ ဆရာတော်ဘုရားကြီးနှင့်တကွ ပဋ္ဌာသမဏာ ဦးပဏ္ဍိတ၊ ဦးကိတ္တိ၊ ဦးဝိသုဒ္ဓ၊ ဦးဇယန္တ၊ ဦးဝိလာသ၊ အန္တေဝါသိကသံဃာ နောက်ပါငါးပါးခြံရံလျက် ရက္ခပူရနိုင်ငံ စစ်တွေမြို့ဒေသသို့ ထွက်ကြွတော်မူလေသည်။

မဟာဏ္ဏဝ သမုဒ္ဒရာအပြင်ဝယ် ဘော်စင်ကျူငွေ ရောင်ရှိရေဖြင့် လှိုင်းလေဂယက် လွန်ငြိမ်သက်၍ (၃)ရက်၊ (၂)ညနှင့်ပင် ၎င်းပြာသိုလဆန်း ၈–ရက်နေ့(အေဒီ–၁၀၊ ဇန်နဝါရီလ၊ ၁၉၀၈–ခုနှစ်) ညနေ (၄)နာရီအချိန်တွင် စစ်တွေမြို့ဆိပ်ကမ်းသို့ ဆိုက်ကပ်တော်မူလေကာ သင်္ဘောထက်မှရှုမြော်ကြရာ ကြေညာအုပ်ကျက် ဆိပ်ကမ်းထက်၌ လက်ရှက်တင်ဦး နဖူးမြေကျ မှန်းဆခြင့်ပေါင်း နှစ်သောင်းမျှလောက်သော ပရိသတ်ထိုထို ခရီးဦးကြိုဆိုမျှော်လင့်ကြသူ လူအပေါင်းတို့ကိုတွေ့မြင်ရသဖြင့် သူဌေးမင်းဦးရဲကျော်သူနှင့်တကွ သင်္ဘောထက်တွင်ပါသမျှ စစ်တွေမြို့သားတို့သည် ပြန့်ပွားစေတနာ သဒ္ဓါတက်ကြွလျက် ရွှင်လန်းအားရဝမ်းမြောက်ခြင်းဖြစ်ကြကုန်သည်။

ဆရာတော်ဘုရားကြီး စီးနင်းကြွသွားတော်မူသောသင်္ဘော ဆိုက်ကပ်သည်နှင့်တပြိုင်နက် အမြောက်ကြီးသုံးချက် ပစ်ဖောက်ကန်တော့ပြီးလျှင် ရေအပြင်၌ လှေပွဲသဘင်ဆင်ယင်ကျင်းပ ဆရာတော်ဘုရားကြီးကို ပူဇော်သက္ကာရပြုကြကုန်သည်။ ၎င်းနောက် စစ်တွေမြို့ပေါ်ရှိ သံဃာတော်တစ်ရာကျော်အရှင်တို့သည် ဆိပ်ကမ်းရှိသင်္ဘောငယ်တစ်ခုနှင့် သင်္ဘောကြီးသို့ဆိုက်ကပ်လာ၍ ဆရာတော်ဘုရားကြီးနှင့် သူတော်အချင်းချင်း သတင်းလွှေ့လွှေ့ ဖူးတွေ့စုံမက် မရက်မစက် နှုတ်ဆက်မြောက်ချီး ခရီးဦးကြိုဆိုကြပြီးလျှင် ဆရာတော်ဘုရားကြီးကို သင်္ဘောငယ်ထက်ပင့်တင်၍ သံတံတားကြီးတွင်ဆိုက်ကပ်ပြီးမှ အမြောက်ကြီးသုံးချက် ပစ်ဖောက်ကန်တော့ကာ ဩဘာစာဖတ်လျှောက်သဖြင့် သာခွာရောင်ပစ္စူ ထီးဖြူအမျိုးမျိုးဆောင်းမိုးဝန်းရံလျက် ပင်လယ်ကမ်းထက်သို့ပင့်ဆောင်ကြကုန်သည်။

ပရမတ္ထသံခိပ်ကျောင်းသား ယောက်ျားသူငယ်တော် လေးကျိပ်ကျော်တို့က သံတံတားကြီးပေါ်မှ ဘုန်းတော်ဘွဲ့ကဗျာ အလင်္ကာဖြင့် တညီတညာတည်း ရွတ်ဆိုပူဇော်ကြလေသည်။ ပရမတ္ထကျောင်းသားသုံးကျိပ်ကျော် သူငယ်မကလေးတို့ကလည်း ကမ်းထိပ်ပေါ်မှ ဦးနှိမ်ချလျက် ပရမတ္ထသံခိပ်ကဗျာနှင့် ညီညာစွာရွတ်ဆိုပူဇော်ကြလေသည်။

ယင်းသို့ ပူဇော်သက္ကာရပြုကြပြီးမှ ဓမ္မသဘင်ဆင်ယင်ကျင်းပရာ မြို့လယ် မဏ္ဍပ်ကြီးသို့ပင့်ဆောင်ကြသောအခါ တစ်မိုင်ကျော်ခရီးအကွာ ပေတရာလမ်းစဉ် တစ်လျှောက်မှာ နှစ်ဖက်ဝဲယာ ကြီးမြင့်စွာသောဝါးဘိုးဝါးဖြင့် တံခွန်လုံးတံခွန်ပြား မုလေးပွားအထပ်ထပ် ရာဇမတ်ဆင်ယင် ငှက်ပျောပင်မြူတာ ကြက်လျှာစိုက်ထူ သဲဖြူခင်းကာ ဖျာရိုင်သင်ဖြူး အထူးထူးသောထည်မျိုးအုပ်မျိုး ပုဆိုးပဝါ ကော်ဇော ခါသာ လွန်စွာသန့်ရှင်းအောင် ခင်းကျင်းစီမံအပ်သော စိတြမဂ္ဂ မင်းလမ်းမဖြင့် မဏ္ဍပ်စံကျောင်းတည်ရှိရာဌာနသို့ ကြွရောက်တော်မူလေက မြို့သူမြို့သားတို့ ယင်ပျားပိတုံးကဲ့သို့ စုရုံးကော်ရော် ပူဇော်ဖူးမြင်ကြလေသည်။

တရားသဘင်ဆင်ယင်ကျင်းပရန်မဏ္ဍပ် ကိန်းဝပ်တော်မူရန်စံကျောင်းတော် များသည် ငွေဒင်္ဂါး–၁၈၀၀ မျှပင်ကုန်ဝင်သောဟူ၏။ ပန်းတုံးရာဇမတ် သုံးထပ် ပတ်ခြံ ကာရံလျက်ရှိသည်တွင် အပြင်ရာဇမတ်အကျယ်ကား အလျားပေပေါင်း (၁၂၆)ပေ၊ အနံပေပေါင်းလည်း(၂၁၆)ပေရှိ၏။ မုခ်ပြာသာဒ်ဆူရေ(၁၂)ရှိ၏။ ရာဇမတ် ဝင်းတိုင်တို့၌လည်း အပြိုင်ညီးညီး မီးတိုင်အစေ့စိုက်ထားလျက်ရှိ၏။ အပြင်ရာဇမတ် ဝင်း အတွင်းတလျှောက်၌ သောက်ရေပြည့်အိုးကြီးတွေ တွက်ရေများပြား တည် ထားလျက်ရှိ၏။ အလယ်ရာဇမတ်ဝင်းသည် ခင်းကျင်းတင့်အပ် မဏ္ဍပ်အလျားအနံ နှင့်မျှ၏။ မဏ္ဍပ်အလျားအနံ အပြန်ပေပေါင်း (၁၅၀)စီရှိ၏။ ရွှေပန်းပြောက်ရွှေပန်းဆွဲ တွဲလျားပတ်လည် ဝန်းရံလျက်ရှိ၏။ တံခါးမုခ်ဝပေါင်း (၁၀)ခုရှိ၏။ တစ်မျက်နှာ တစ်မျက်နှာလျှင် နေရာအခန်းပေါင်း (၁၆)ခန်းရှိ၏။ တစ်ခန်းတစ်ခန်းတွင် မီးအိမ် နှစ်လုံးကျဆွဲလျက်ရှိ၏။ မဏ္ဍပ်အမိုးကား နှစ်ထပ်ရှိ၏။ အထက်ထပ်သည် ဝါးကပ် တည်း။ အောက်ထပ်ကား ရှန်နီထည်တည်း။ ရှန်နီအုပ်ရေ (၁၂၈)အုပ်ကုန်သည်။ အောက်မြေအပြင်၌ မဏ္ဍပ်ကြီးနှင့်အမျှ ဝါးကပ်ကြီးတစ်ချပ်လည်း ခင်းအပ်၏။ တံတွေးထွေးရန် ထွေးခံလည်း အနှံ့အပြားတည်ထား၏။

မဏ္ဍပ်အလယ်၌ အတွင်းရာဇမတ်ဝင်းသည် တရားတော်နာရဟန်းပရိသတ် သံဃာတော်တို့နေထိုင်ကြရန် သံဃာစင်နှင့်မျှ၏။ ပန်းပြောက်စက္ကူမွမ်းမံလျက်ရှိ၏။ သံဃာစင်အမြင့် (၂)ပေခန့်၊ အလျား(၄၅)ပေ၊ အနံ(၂)ပေတည်း။

ငင်းပြင် သံဃာစင်၏အလယ်၌ ထူးဆန်းတင့်တယ်စွာ ခြယ်လယ်လျောက်ပတ် သော ရွှေပြာသာဒ်နှင့်တကွ ဓမ္မာသနတရားဟောပလ္လင်ပေါက်၏။ ရွှေပြာသာဒ် အစောက်အမြင့်(၅၆)ပေရှိ၏။အလျားအနံအကျယ်(၂၁)ပေမှာ အနီအဝါ ရွှေနာယကာ မျိုးစုံမွမ်းမံ၏။ တရားဟောပလ္လင်အမြင့်(၄)ပေခွဲရှိ၏။ အလျားအနံ (၇)ပေခွဲကျယ်၏။ ပလ္လင်၌ ရွှေအစုံမွမ်း၏။ လေးမျက်နှာ၌ဇာကိုယ်လုံးပေါ်ကာရံ၏။ အလယ်၌ ကော်ဇော ကြီးငယ်ခင်းလျက် ဆရာတော်သီတင်းသုံးရန် သဋ္ဌာလီကုလားထိုင်ခင်းထား၏။

မဏ္ဍပ်တောင်မြောက် အရှေ့ဖျားအစွန်မှ သံဃာစင်သို့ ခိုက်စေလျက် ရာဇမတ် မင်းလမ်း သုံးတန်း သုံးသွယ်ထား၏။ တောင်မြောက်မင်းလမ်းနှစ်သွယ်၏ရှေ့၌ ဒါယိကာမပရိသတ်တို့နေကြ၏။ စံကျောင်းတော်နှင့်စပ်လျက် အနောက်ဘက်၌ ဒါယကာယောက်ျား ပရိသတ်တို့နေကြ၏။ အလယ် သံဃာစင်အမြင့်၌ ရဟန်း ပရိသတ်တို့သီတင်းသုံးတော်မူကြ၏။ မဏ္ဍပ်၏အနောက်မျက်နှာနှင့်စပ်လျဉ်းလျက် ဆက်အပ်သော ရွှေပြာသာဒ်နှင့်တကွ စံကျောင်းတော်တည်ရှိ၏။ ပြာသာဒ်အမြင့် အနံ အလျားပမာဏသည် တရားဟောပလ္လင်၏ အထက်အပြင် ပြာသာဒ်နှင့် တူ၏။ ပြာသာဒ်အောက်ခံ စံကျောင်းအလျားအနံ (၂၁)ပေစီရှိ၏။ ရှေ့၌ မဏ္ဍပ် နှင့်စပ်လျက် စင်္ကြံအလျား(၈)ပေခန့်၊ အနံပေ(၅၀)ခန့်ရှိ၏။ အတွင်း၌ ပိတ်ထည် အပြည့် မိုးလျက်ရှိ၏။ စံကျောင်းပြာသာဒ်၏ဝဲဘက်၌ နောက်ပါသံဃာတို့ကျောင်း ဖြစ်၏။ ယာဘက်၌ စစ်တွေမြို့ ဘာဝနာအသင်းသား နှစ်ကျိပ်ကျော်တို့နေရာ ဆွမ်းရုံဇရပ်ဖြစ်၏။ ၎င်းအသင်းသားတို့သည် ဇရပ်၌ အမြဲနေ၍ ဆရာတော် သံဃာ တော်တို့နှင့်စပ်သော ဝေယျာဝစ္စအမှုမျိုး တရားမဏ္ဍပ်နှင့်စပ်သော ဝေယျာဝစ္စ အမှုမျိုးတို့ကို အမြဲရွက်ဆောင်ကြကုန်၏။

သူဌေးမင်းဦးရဲကျော်သူက ဆောက်လုပ်ချက်ပြုတ်ကျွေးမွေးသော ဆွမ်းရုံ လည်းရှိ၏။ တပါးတိုက်တာတို့၌ ဂိုဏ်းဂဏအလျဉ်းသင့်ရာ တည်းခိုနေထိုင်ကြ သော အာဂန္တုကရဟန်းတို့ကို ကျွေးမွေးပြုစုရန် ၎င်းသူဌေးမင်းက ထိုထိုတိုက်တာရှိ ကပ္ပိယကာရကတို့အား ဆွမ်းစရိတ်ကြေးငွေ အမြောက်အမြား ပေးအပ်ထား၏။ ဆရာတော်ဆိုက်ရောက်သည့်နေ့မှစ၍ ဆွမ်းအုပ်ပေါင်း (၄၀)ခန့် (၅၀)ခန့်တို့သည် နေ့စဉ်လာရောက်ကုန်၏။ ဆွမ်းရုံနှစ်ခုမှာလည်း နေ့စဉ်ဆွမ်းချက်၏။ စစ်တွေမြို့နယ် တစ်ဝန်းလုံးမှ တရားနာလာရောက်ကြကုန်သော အဝေးသံဃာအာဂန္တုရဟန်းတော် တို့ကိုလည်း နေ့စဉ်ဆွမ်းကျွေး၏။ နေဝင်လျှင် အပြင်ဝင်း အလယ်ဝင်း မဏ္ဍပ်တွင်းရှိ မီးအိမ်တို့ကို ညှိထွန်းကြ၏။ မြို့တွင်းမှာလည်း လမ်းရှိသမျှတို့၌ အကုန်မီးထွန်းကြရ၏။ တရားမဏ္ဍပ်နှင့်တကွ စစ်တွေမြို့ တစ်မြို့လုံးသည် (၁၃)ရက်ပတ်လုံး နေ့အခါကဲ့သို့ မီးရှူးမီးအိမ်တို့ဖြင့်ထိန်ထိန်လင်းလျက်ရှိ၏။

ပြာသိုလဆန်း ၉-ရက် (အေဒီ-၁၁၊ ဇန်နဝါရီလ၊ ၁၉၀၈-ခုနှစ်)မှစ၍ နေ့စဉ် နေ့တိုင်း ည (၇)နာရီအချိန်တိုင်ရောက်လျှင် စစ်တွေမြို့သူမြို့သားတို့သည် မဏ္ဍပ် တွင်းသို့ လာရောက်စည်းဝေးနေထိုင်ကြကုန်၏။ ငါးအိမ်လျှင်တစ်ယောက် ခြောက် အိမ်လျှင်တစ်ယောက် အိမ်စောင့်ထားကြရသည်၊ အချို့မှာလည်း ဒရဝန်တစ်ယောက် ကို အိမ်စောင့်ထားကြကုန်၏။

ဆရာတော်ဘုရားကြီးလည်း ၉-ရက်နေ့မှစ၍ ၎င်းလဆုတ် ၅-ရက် (အေဒီ- ၂၂၊ ဇန်နဝါရီလ၊ ၁၉၀၈-ခုနှစ်)တိုင် နေ့စဉ်မပျက် ည (၈)နာရီအချိန်မှစ၍ (၁၁)နာရီ

ကျော်တိုင်အောင် သုံးနာရီပတ်လုံး စစ်တွေမြို့သူမြို့သားအပေါင်းတို့အား ဒေသနာ အမြိုက်မိုးကို ဖြိုးဖြိုးကြီးရွာစွေတော်မူသည်။

ပထမနေ့၌ ဓမ္မဒေဝဇာတ်(ဇာ၊၁။၂၂၉။ ဇာ၊၌၄၊၁၀၁။)၊ သီရိဇာတ်(ဇာ၊၁။၈၅။ ဇာ၊၌၂။၃၆၈။)တို့ကိုဟောတော်မူသည်။ ဒုတိယနေ့ တတိယနေ့တို့၌ မနုဿတ္တ ဒုလ္လဘကိုဟောတော်မူသည်။ စတုတ္ထနေ့၌ သဥပါဒိသေသ ပထမနိဗ္ဗာန်ကြီးကို ဟောတော်မူသည်။ ပဥ္စမနေ့မှစ၍ မဂ္ဂင်ရှစ်ပါးကို ငါးရက်တိုင်တိုင်ဟောတော်မူသည်။ ဆယ်ရက်မြောက်သောနေ့မှစ၍ သာသနဒါယဇ္ဇသာသနာ့အမွေခံတရားကို သုံးရက် တိုင်တိုင်ဟောတော်မူသည်။

ဥတေနမင်း၏ဟတ္ထိကန္တ စောင်းသံကိုကြားကြရကုန်သော တောဆင်အပေါင်း တို့သည် စောင်းသံကိုခင်မင်ကြသဖြင့် အရပ်တပါးသို့မသွားနိုင်ရှိနေကြကုန်သကဲ့သို့ စစ်တွေမြို့သူမြို့သားတို့သည် ဆရာတော်ဘုရား၏တရားဒေသနာသံကိုခင်မင်သဖြင့် မဏ္ဍပ်တွင်းကပင် မထွက်နိုင်ဘဲရှိနေကြကုန်သည်။

နောက်ဆုံးသုံးရက်တို့မှာလည်း တစ်မြို့လုံးထွက်ပြီးလျှင် အပြင်ရာဇမတ်ဝင်း လေးမျက်နှာပတ်လုံး ဝန်းဝိုင်းလျက် ဆရာတော်ဘုရားကြီးကိုအမှူးပြု၍ စစ်တွေ မြို့ရှိ ဆရာတော်သံဃာတော် အဝေးရောက်အာဂန္တုဆရာတော် သံဃာတော်သုံးရာ ကျော်တို့အား သုံးရက်တိုင်တိုင် သံဃဒါနဆွမ်းကြီးလောင်း ကပ်လှူဒါန်းကြကုန်သည်။

ဆရာတော်ဘုရားသည်လည်း ရန်ကုန်, မော်လမြိုင် စသော အောက်မြန်မာ နိုင်ငံတစ်ဝန်းလုံး၌ တရားဓမ္မဟောခဲ့ရသည်မှာ နှစ်နှစ်ကျော်ခန့်ရှိပြီ၊ စစ်တွေမြို့ ကဲ့သို့ အရာရာ၌ နေရာတကျရှိပေသည်ကိုင်၊ တရားဓမ္မ၌ ဂရုဂါရဝအားကြီး ကြသဖြင့် ငါးထောင်,ခြောက်ထောင်ခန့်ရှိသော ပရိသတ်တို့တွင် တစ်စုံတစ်ယောက် မျှ ထကြွလှုပ်ရှား စကားတီးတိုးပြောဆိုခြင်းမရှိ မုနိထွတ်ထား ဘုရားမြတ်စွာ၏ အဘိဓမ္မာတရားကို နာခံကြသော တာဝတိံသာ နတ် ဗြဟ္မာပရိသတ်ကဲ့သို့ ငြိမ်ဝပ် တည်ကြည်ရှိကြသည်ကိုင်း မတွေ့မကြုံရဘူးသေးဟု မိန့်တော်မူသည်။

ဓညဝတီ ပူရီခရိုင် ရခိုင်ပြည်နယ် မြို့ကြီးမြို့ငယ်တစ်ဝန်းလုံးသည် ပျားပိတုန်း ဆူကြသကဲ့သို့ တရုံးရုံးရှိကြကုန်သည်။ တရားမဏ္ဍပ်သို့လာရောက်၍ ယစ်မျိုးငါးပါး နှင့်တကွ နွားသားကျွဲသားများကို မစားမသောက်ပါဟု လှူဒါန်းကြသူလူဦးရေပေါင်း (၇၀၀၀)ကျော်မျှ စာရင်းရရှိ၍ သမထအလုပ် ဝိပဿနာအလုပ်များကို အားထုတ် ကြသူ ရှင်လူရဟန်းများစွာတို့ကို တွေ့မြင်ရသည်။ ပြာသိုလဆုတ် ၆–ရက် (အေဒီ– ၂၃၊ ဇန်နဝါရီလ၊ ၁၉၀၈–ခုနှစ်)နေ့တွင် စစ်တွေမြို့သူမြို့သားအပေါင်းတို့အား သရဏဂုံ သီလ ဓမ္မကထာတို့ဖြင့် နေ့အခါဆုံးမ၍ ညနေ ငါးနာရီအချိန်တွင် မြို့သူမြို့သား အများဝန်းအုံလျက် ရန်ကုန်ထွက်သင်္ဘောကြီးသို့ ဆရာတော်ကိုပို့ဆောင်ကြကုန်ပြီး၍

ည(၇)နာရီအချိန်မှာ ကမ်းစဉ်တလျှောက်၌ မီးနီမီးဝါ မီးပဒေသာအမျိုးမျိုးတို့နှင့်တကွ ကောင်းကင်သို့ ထန်းပင်သုံးပြန်လေးပြန်ခန့် ပျံတက်ပေါက်ကွဲ အနန်နဲသော ဥပါမီးပန်းတို့ဖြင့်၎င်း၊ ဆင်သံမြင်းသံ အမြောက်သံကဲ့သို့ ဆူညံမြည်ဟိန်းသော ရှူးမီးပေါက်မီးအမျိုးမျိုးတို့ဖြင့်၎င်း မီးပွဲသဘင်ဆင်ယင်ကျင်းပ၍ သုံးနာရီခန့်မျှကြာအောင် ဆရာတော်ကိုပူဇော်ကြကုန်၏။

ကပ္ပိယဒါယကာတို့နှင့်တကွ နောက်ပါသံဃာတော် ဆရာတော်တို့သည်လည်း စစ်တွေမြို့သူမြို့သား ပရိသတ်အများတို့၏ လွမ်းဆွတ်ပူပင် မရွှင်မလန်း မြည်တမ်းငိုကြွေးကြသော မျက်နှာတွေကို မြင်ကြလျှင် မရွှင်စိတ်စက် မခွဲရက်မခွာအားသကဲ့သို့ မေတ္တာကရုဏာတရား ဖြစ်ပွားကြရကုန်သည်။–ဟူ၍ဖြစ်ပါသည်။*၁

**သာသနဒါယဇ္ဇဒီပနီ**

ဤသို့ စစ်တွေမြို့မှ ရန်ကုန်မြို့သို့အပြန် ပင်လယ်ရေခရီးလမ်းတွင် စစ်တွေမြို့၌ သုံးရက်တိုင်တိုင်ရှင်းလင်းဟောကြားတော်မူခဲ့သော သာသနာ့အမွေခံခေါ် သာသနဒါယဇ္ဇတရားတော်ကို ကပ္ပိယဒါယကာဦးဘိုးမင်း၏လျှောက်ထားတောင်းပန်ချက်အရ လယ်တီဆရာတော်ကြီးသည် မီးသင်္ဘောထက်တွင်ရေးသားတော်မူရာ ရန်ကုန်မြို့ဆိပ်ကမ်းသို့ သင်္ဘောမဆိုက်ကပ်မီ သက္ကရာဇ် ၁၂၆၉–ခုနှစ်၊ ပြာသိုလပြည့်ကျော် ၈–ရက် (အေဒီ–၉၊ ဖေဖော်ဝါရီလ၊ ၁၉၀၈–ခုနှစ်) နာရီပြန် (၁)ချက်အချိန်တွင် သာသနဒါယဇ္ဇကျမ်းကို ရေးသားပြီးစီးတော်မူပါသည်။*၂

ဤကျမ်းတွင် မင်းတုန်းမင်းကြီးလက်ထက်က သာသနာ့အမွေခံဖြစ်ကြပုံကို ဆရာတော်ကြီးသည် ကိုယ်တွေ့အနေအားဖြင့် အောက်ပါအတိုင်းမှတ်တမ်းတင်ရေးသားတော်မူခဲ့ပါသည်။

'မန္တလေးရတနာပုံမြို့တော် ပထမမြို့တည်နန်းတည် ပဥ္စမသင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီးလက်ထက် စကြာဒေဝီမိဖုရားကြီးအမှူးရှိသော နန်းတော်သူအပေါင်းတို့အား ကျမ်းတတ်အကျော်ဆရာတော်လေးများ နေ့စဉ်ဝင်ကာ စာချပေး၏။ သဂြိုဟ်ကိုးပိုင်းနှင့်တကွ ပဌာန်းပစ္စယနိဒ္ဒေသပါဠိတော်,သတိပဋ္ဌာန်ပါဠိတော်များကို တစ်နန်းတော်လုံးဆောင်ရွက်ကြကုန်၏။ အချို့သောမြို့စား, ရွာစား နန်းတော်သူမများတို့သည် ပိဋကတ်သုံးပုံပါဠိ, အဋ္ဌကထာ, ဋီကာကျမ်းဂန်များကို နိဿယနံစောင်မရှိဘဲ ကြည့်ရှုနိုင်ကြကုန်၏။ စကြာဒေဝီမိဖုရားကြီးသည် ပိဋကတ်သုံးပုံကို အကုန်ပေါက်ရောက်၏' *၃–ဟူ၍ဖြစ်ပါသည်။*၄

---

*၁ လယ်တီပဏ္ဍိတ၏ ကဗျာ့မဥ္ဇရီ။ ၁၃၂၃–ခုနှစ်။ (စာမျက်နှာ ၁၈၅–၁၉၁)။

*၂ လယ်တီဆရာတော်ကြီး၏ သာသနဒါယဇ္ဇဒီပနီ။ မြင့်ဆွေစာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၉၃–ခုနှစ်။ (စာမျက်နှာ–၅၁)။

*၃ စကြာဒေဝီမိဖုရားကြီး ပိဋကတ်သုံးပုံကျွမ်းကျင်ပုံကို ဓမ္မဒီပနီကျမ်း၌ လယ်တီဆရာတော်ကြီး ရေးသားတော်မူခဲ့ဖူးပါသည်။ လယ်တီဆရာတော်ကြီး၏ ဓမ္မဒီပနီ။ ၁၂၈၆–ခုနှစ်။ (စာမျက်နှာ–၇၄)။

*၄ လယ်တီဆရာတော်ကြီး၏ သာသနဒါယဇ္ဇဒီပနီ။ ၁၉၉၃–ခုနှစ်။ (စာမျက်နှာ–၃၃)။

'ယခုကာလ'ဟုအစချီကာ ဆရာတော်ကြီးသည် မိမိမျက်မှောက်ပစ္စက္ခကာလ၌ မြန်မာနိုင်ငံသူနိုင်ငံသား ဒါယကာ,ဒါယိကာမအပေါင်းတို့၏သာသနအမွေခံယူပုံအနေကို မှတ်တမ်းတင်ရေးသားထားတော်မူသည်မှာလည်း–

'ယခုကာလ၌မူကား လူယောကျ်ား,လူမိန်းမတို့သည် မြတ်စွာဘုရား၏အမွေခံ သားတော်သမီးတော်တွေဖြစ်ကြပါကုန်လျက် ကျမ်းဂန်စာပေပရိယတ္တိအမွေတော်ကိုပင် ခံယူကြသူအလွန်နည်းပါးကြကုန်၏။ ပဋိပတ္တိအမွေတော်ကို ခံယူကြသူတို့ကား ထို့ထက်နည်းပါးကြကုန်၏။ ပဋိဝေဓအမွေတော်ကိုကား ယခုသာသနာတွင်ရထိုက်သည်ဟူ၍ပင် မထင်ကြချေ'*၁–ဟူ၍ဖြစ်ပါသည်။

မုံရွာသို့

သက္ကရာဇ် ၁၂၆၉–ခုနှစ်၊ ပြာသိုလ (အေဒီ ၁၉၀၈–ခုနှစ်၊ ဖေဖော်ဝါရီလ)အတွင်း လယ်တီဆရာတော်ကြီးအား မုံရွာမြို့မှပင့်ဆောင်သည့်အတွက် နောက်ပါသံဃာများခြံရံလျက် မုံရွာမြို့သို့ သင်္ဘောစီးနင်း၍ကြွတော်မူခဲ့ပါသည်။ မုံရွာမြို့သို့ရောက်လျှင် ကမ်းနားမဏ္ဍပ်ကြီး၌ ညတရားပွဲကျင်းပရာ မုံရွာမြို့ မဟာဂန္ဓာရုံတိုက်မှ မဟာဂန္ဓာရုံဆရာတော်ကြီး*၂ နှင့်တိုက်သံဃာများ တရားပွဲသို့ကြွရောက်၍ နာယူခဲ့ကြပါသည်။ ထိုစဉ်က ကျောင်းသားအဖြစ်အတူလိုက်ပါလာရသော ဒါယကာဦးဘသန်း*၃ က မိမိကိုယ်တွေ့တို့ကို အောက်ပါအတိုင်း မှတ်တမ်းတင်ရေးသားတော်မူပါသည်။

'တစ်နိုင်ငံလုံးကို ပလိပ်ရောဂါကခြိမ်းခြောက်နေသောအခါဖြစ်၍ လယ်တီဆရာတော်ကြီးသည် ပရိသတ်များအား တရားမဟောမီ သရဏဂုံဆောက်တည်စေပြီးနောက် သရဏဂုံအင်းချထားသော လက်ဖွဲ့များကို ပေးသနားတော်မူသဖြင့် စာရေးသူလည်း လက်ဖွဲ့တစ်ခုရရှိခဲ့ရာ အန္တရာယ်ကင်းတော့မည်ဟူသော မျှော်လင့်ချက်ဖြင့် အလွန်အားတက်ခဲ့ဖူးပါသည်။

ကျေးဇူးရှင်ဖြစ်သော ကျွဲနွားများ၏အသားကိုမစားကြရန်ဟောတော်မူသည်ကို မှတ်မိပါသည်။ 'ငါတို့ပေးထားတဲ့ အန္တရာယ်ကင်းလက်ဖွဲ့ကိုရရှိထားတဲ့ပုဂ္ဂိုလ်မှန်သမျှ 'အမဲသားမစားတော့ပါဘူး'လို့ဝန်ခံပြီး အမဲသားလျှော့ကြရမည့်အကြောင်းကို မိန့်တော်မူသောအခါ သူ့ငါကိုး တက်တက်ကြွကြွအမဲသားလျှော့ကြသည်ကိုလည်း ဒိဋ္ဌတွေ့မြင်ခဲ့ရပါသည်။

*၁ လယ်တီဆရာတော်ကြီး၏ သာသနဒါယဇ္ဇဒီပနီ။ ၁၉၉၃–ခုနှစ်။ (စာမျက်နှာ–၄၄)။

*၂ မဟာဂန္ဓာရုံဆရာတော်ကြီး သက္ကရာဇ်–၁၂၃၂(အေဒီ–၁၈၇၀)ခုနှစ်ဖွား၍၊ သက္ကရာဇ်–၁၃၀၁ (အေဒီ–၁၉၃၉)ခုနှစ် လွန်တော်မူသည်။ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ တပည့်ဖြစ်ပြီး၊ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးထံတော်တွင် စံကင်းဆရာတော်၊ လယ်တီပဏ္ဍိတတို့နှင့် တစ်ခေတ်တည်းစာသင်ဖက်ဖြစ်သည်။ ဦးဘသန်း၏ မုံရွာမြို့ မဟာဂန္ဓာရာမိကထေရုပ္ပတ္တိအကျဉ်း။ မယုရဝတီစာပုံနှိပ်တိုက်၊ မုံရွာမြို့။ ၁၃၀၁–ခုနှစ်။ (စာမျက်နှာ–၂၀)။

*၃ နောင်အခါ အငြိမ်းစား စာပြင်မှူး ငပ္ပကျော်ထင်ဆရာကြီးဦးဘသန်းဖြစ်ပါသည်။



မနုဖြူမြို့တွင် လယ်တီဆရာတော်ကြီး သီတင်းသုံးတော်မူနေစဉ်ရိုက်ကူးထားသောပုံ။

'အသက်ရှည်ရာ၊ အနာမဲ့ကြောင်း၊ ကောင်းလှစေချင်၊ ပဲ့ပြင်နိစ္စ၊ ကွပ်ဆုံးမ သား၊ မိဘဆရာ၊ စကားနာ၍'–အစရှိသောဆုံးမစာအရ ဆရာမိဘတို့က တပည့်သားများ အသက်ရှည်ကြောင်း အနာကင်းကြောင်း နည်းလမ်းကောင်းများကို ညွှန်ကြားပေးရကြောင်း၊ ကျန်းမာရေးနှင့်ပြည့်စုံမှသာ မဂ်ဖိုလ်ရကြောင်းတရားကောင်းများကို ကြိုးစားနိုင်မည်ဖြစ်၍ မြတ်စွာဘုရားကိုယ်တော်တိုင် အသက်ရှည်ကြောင်းတရားငါးပါးကို ဟောတော်မူခဲ့ကြောင်း၊ အာရောဂျ ပရမံလာဘံ–ကျန်းမာခြင်း, ရောဂါကင်းခြင်းသည် အမြတ်ဆုံးလာဘ်ဖြစ်သည်–ဟူသော တရားမှာလည်း ဘုရားဟောဒေသနာပင်ဖြစ်ကြောင်း အကျယ်တဝင့်ဟောတော်မူသည်ကိုနာယူခဲ့ရပါသည်။ သံသရာရေး, ပစ္စုပ္ပန်ရေးရှိရာတွင် မိမိတို့စွမ်းနိုင်ရာကနေ၍ အကျိုးရှိအောင်ဆောင်ရွက်ပေးတော်မူကြသော ဆရာသမားများအား သူက ပစ္စုပ္ပန်ဆရာပဲ–စသည်ဖြင့် အပြစ်မပြောမိဖို့အရေးကြီးကြောင်း၊ ဆရာဆိုသည်မှာ သူ့နေရာနှင့်သူ ကောင်းကျိုးဆောင်သဖြင့် ကျေးဇူးရှင်များပင်ဖြစ်ကြောင်း– စသည်တို့ကိုလည်း ထည့်သွင်းဟောပြတော်မူပါသည်။ စာရေးသူမှာ ငယ်ရွယ်သူဖြစ်၍ အားလုံးမမှတ်မိတော့ပါ။ ကျန်းမာရေးနှင့်စပ်လျဉ်းသောတရားတွေကား အများကြီးကျန်သေးသည်။'*[၁]–ဟူ၍ ဖြစ်သည်။

တစ်ဖန် ဓမ္မကထိကအကျော် ဝိသုဒ္ဓါရုံအရှင်ပညိန္ဒလောင်းလျာသည် ထိုစဉ်အခါက ဓနုဖြူမြို့၊ မဟာဂန္ဓာရုံကျောင်းတိုက်၌ ကျောင်းသားအဖြစ်နှင့်ရှိနေပြန်ရာ ထိုအရှင်ဦးပညိန္ဒ၏လယ်တီဆရာတော်ကြီး၏ ဓနုဖြူတရားပွဲကိုယ်တွေ့မှာ အောက်ပါအတိုင်းဖြစ်လေသည်။

'ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး ၁၂၆၉–ခုနှစ် ဓနုဖြူမြို့သို့ တရားစည်ကြီးရိုက်တီးတော်မူရန်အတွက် ပင့်လျှောက်ချက်အရ ကြွတော်မူလာတဲ့အခါ ဦးပဍ္ဍင်းကိုယ်တိုင် ကျောင်းသားအဖြစ်နှင့် ငါးညပတ်လုံးတရားနာလိုက်ခဲ့ဖူးတယ်။

ပထမညတွင် ဓမ္မသင်္ဂဏီပါဠိတော်၏အစဆုံးဖြစ်တဲ့ 'ကုသလာဓမ္မာ'ကိုအမျိုးမျိုးဝေဖန်၍ဟောတော်မူရာ ထိုညအတွက် 'ကုသလာဓမ္မာ'တစ်ပုဒ်နှင့်ပင် တရားပွဲအဆုံးသတ်တော်မူတယ်။ ဒုတိယညတွင် 'အကုသလာဓမ္မာ'တစ်ပုဒ်နှင့်ပင် တရားပွဲအဆုံးသတ်တော်မူတယ်။ တတိယညတွင် 'အဗျာကတာဓမ္မာ'တစ်ပုဒ်နှင့်ပင် တရားပွဲအဆုံးသတ်တော်မူတယ်။ ထိုစဉ်အခါကမှတ်သားခဲ့ဖူးတဲ့ တရားဟောပုံအချက်အလက်ကို နောင်ရဟန်းအဖြစ်သို့ရောက်၍ နောက်ကြောင်းကိုပြန်တွေးပြီး တရေးရေးစဉ်းစားကြည့်တဲ့အခါ 'ကုသလာဓမ္မာ၊ အကုသလာဓမ္မာ၊ အဗျာကတာဓမ္မာ'တစ်ပုဒ်စီကိုမူတည်ပြီးလျှင် ဇာတိဉာဏ်ဖြင့်ခွဲစိတ်၍ အမျိုးမျိုးချဲ့ထွင်ဟောတော်မူခြင်းသည် ကြားနာရသူများ နည်းရသဖြင့် ဉာဏ်ကြီးခြင်း၏အကြောင်းနှင့် ဒေသနာတော်၏

*[၁] ဦးဘသန်း၏ သမားဂုဏ်ရည်ကျမ်း။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၂–ခုနှစ်။ (စာမျက်နှာ–၂၂၅၊ ၂၂၆)။

ဆန်းကြယ်ပုံကို အကုန်မကျန်ဝေဖန်ခွဲစိတ်၍ သိမြင်ရခြင်း၏အခြေခံ ဖြစ်ပေတယ်လို့ ကြံတွေးပြီး ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ဂုဏ်ကျေးဇူးတော်များကို စဉ်းစား၍မကုန်နိုင်အောင် အပုံကြီးတွေးတောမိပေတယ်'*၁–ဟုဖြစ်ပါသည်။

**နှုတ်ခမ်းမွေးဆရာတော်ဦးဉာဏဝံသ*၂**

လယ်တီဆရာတော်ကြီးသည် ဓနုဖြူမြို့၌ သီတင်းသုံးနေတော်မူစဉ် ဆကာကြီးအရပ်မှ ပင့်ဆောင်သောကြောင့် ကြွတော်မူရပါသည်။ ဆကာကြီးသို့ရောက်လျှင် လယ်တီဆရာတော်ကြီး နှင့်အတူ နောက်တော်မှ ပါလာသောအရှင်ပဏ္ဍိတကိုယ်တော်သည် ညောင်ချောင်းရွာသို့ကြွသွား ပြီး ဒွါရနိကာယတွင် စာပေပရိယတ်အရာ၌ အလွန်နာမည်ကျော်စောသော ညောင်ချောင်း ဆရာတော်ဦးဉာဏဝံသကို ဖူးမြော်ဝတ်ပြုခဲ့ပါသည်။ ဤသို့ လယ်တီပဏ္ဍိတကိုယ်တော်၏ သတင်းစကားဖြင့် ညောင်ချောင်းဆရာတော်မှာ လယ်တီဆရာတော်ကြီး မိမိတို့အရပ်သို့ကြွလာ ကြောင်းကိုသိ၍ လယ်တီပဏ္ဍိတအပြန်လယ်တီဆရာတော်ကြီးအားဦးခိုက်ရန်လိုက်ပါလာခဲ့ပါသည်။

ဆရာတော်ဦးဉာဏဝံသသည် စာပေပရိယတ်အရာ၌ နှံ့စပ်ကျွမ်းကျင်လှပြီး အကျင့်သီလ ဖက်၌လည်း စံပြဖြစ်တော်မူပါသည်။ အထူးအားဖြင့် အောက်နိုင်ငံတလွှား ဒွါရနိကာယတွင် ညောင်ချောင်းဆရာတော်အရှင်ဉာဏဝံသသည် ဘာသန္တရဝိဒူဓမ္မသေနာပတိ တစ်ဆူဖြစ်တော် မူပါသည်။ ညောင်ချောင်းဆရာတော်သည် သိက္ခာတော် ၈–ဝါအရ သက္ကရာဇ် ၁၂၄၉ (အေဒီ ၁၈၈၇–ခုနှစ်)တွင် အုဂ်ဖိုရ်ဆရာတော်ဘုရားကြီးနှင့်အတူ သီဟိုဠ်သို့ကြွတော်မူခဲ့ပါသည်။ ပြီးလျှင် သီဟိုဠ်၌ နေရစ်ကာ ပါဠိ, ပြာကတ, သက္ကတ စသည့်စာပေတို့ကို (၁၀) နှစ်တိုင်ကြာအောင် သင်ယူခဲ့ပါသည်။ ညောင်ချောင်းဆရာတော်သည် သီဟိုဠ်၌ သျာမယာနခေါ် ယွန်းဂိုဏ်းနှင့် သက်ဆိုင်သောကျောင်းတွင် သီတင်းသုံးနေထိုင်ခဲ့ရပါသည်။ ထိုယွန်းဂိုဏ်းဝင်သံဃာတို့သည် မုတ်ဆိတ်ကျင်စွယ်ကို မွေးညှပ်နှင့်မနုတ်ကောင်းဟုအယူရှိ၍ အတန်ရှည်မှ သင်ဓုန်းဖြင့် ရိတ်လေ့ ရှိကြသည်။ ထို့ပြင် ဘုရားရှင်၌လည်း မုတ်ဆိတ်ကျင်စွယ်ရှိသည်ဟုယူဆလျက် အချို့ပုဂ္ဂိုလ်တို့က ရုပ်တုဆင်းတုတော်များကို မုတ်ဆိတ်ကျင်စွယ်ထည့်၍ ထုလုပ်ကိုးကွယ်ခဲ့ကြသည်။*၃

ဤသို့ ယွန်းဂိုဏ်းသားတို့၏ ဘုရားဆင်းတုတော်၌ မုတ်ဆိတ်ကျင်စွယ်ထားလျက် ကိုးကွယ် သောအယူကို အရှင်ဉာဏဝံသသည် နှစ်သက်တော်မူခဲ့ပါသည်။ အပဒါန်ပါဠိတော်အဖွင့်

---

*၁ ဝိသုဒ္ဓါရုံဓမ္မကထိက အရှင်ပညိန္ဒ၏ နယဂ္ဂါဟဒေသနာ။ လယ်တီတရားသတင်းစာ။ ၁၂၈၈–ခုနှစ်၊ ဝါခေါင်လ။ (စာမျက်နှာ–၃၉)။

*၂ ဦးဉာဏဝံသသည် ဓနုဖြူမြို့တောင်ဘက် (၅) မိုင်အကွာရှိ ညောင်ချောင်းရွာ၌ သက္ကရာဇ် ၁၂၂၈ (အေဒီ ၁၈၆၆–ခုနှစ်)တွင် ဖွားမြင်ခဲ့ပြီး ဒွါရနိကာယ အုဂ်ဖိုရ်ဆရာတော်ဘုရားကြီး၏တပည့်ရင်းဖြစ်သည်။ ညောင်ချောင်းဆရာတော်သည် သဒ္ဒလီလာသဒ္ဒါကျမ်း၊ ဥတ္တမင်္ဂဝိနိစ္ဆယ၊ ဥတ္တမင်္ဂဝိနိစ္ဆယဋီကာ၊ အဇ္ဈတ္တဒီပနီ၊ သီလဝိသုဒ္ဓိကထာ၊ ဣရိယာပထကောသလ္လ– စသော ကျမ်းများစွာကိုရေးသားခဲ့ပါသည်။ သက္ကရာဇ် ၁၃၀၃–ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် (၁၁)ရက် (၁၃၊ ၁၁၊ ၁၉၄၀)တွင် ပျံလွန်တော်မူပါသည်။

*၃ တည်တောဆရာတော်၏ မန်လည်စကားပုံများ။ စိန်မြစာပေတိုက်၊ ရန်ကုန်မြို့။ ၁၉၇၅–ခုနှစ်။ (စာမျက်နှာ–၁၈၁၊ ၁၈၂)

အဋ္ဌကထာ၌ ဘုရားရှင်သည် ဆံတော်ပယ်သောကာလ၌ ဆံတော်ကိုလက်နှစ်သစ်ကြွင်း ပယ်ဖြတ်တော်မူသကဲ့သို့ မသယုခေါ် မုတ်ဆိတ်ကျင်စွယ်ကိုလည်း ဆံတော်နှင့်ညီစွာထားတော်မူသောကြောင့်ဖွင့်ဆိုထားရာ ထိုအဋ္ဌကထာအယူအတိုင်း ဥတ္တမင်္ဂဝိနိစ္ဆယအမည်ရှိသောကျမ်းကိုရေး၍ ဘုရားရှင်၏ပုံတော်၌ နှုတ်ခမ်းမွှေးပါသင့်ပုံတင်ပြခဲ့လေသည်။*၁ ဓနုဖြူ ဆကာကြီး၊ ပြင်ဒရယ်စသောဒေသတို့၌ရှိ ဘုရားဆင်းတုတော်တို့တွင် အထူးသဖြင့် ဓနုဖြူမြို့၊ ကျိုက်ကလွန်ပွန်စေတီကြီးရှိ ဆင်းတုတော်ကြီးတစ်ဆူတွင် မုတ်ဆိတ်ထည့်တပ်လေရာ ထိုခေတ်ကဘာသာရေးလောက၌ လှုပ်လှုပ်ရွရွဖြစ်ခဲ့ရဖူးလေသည်။*၂

ဆရာတော်ဦးဉာဏဝံသသည် လယ်တီဆရာတော်ကြီးထံတော်မှောက်ရောက်သောအခါ သာသနာရေးဆိုင်ရာများ၊ စာပေရေးရာများစသည် ဟိုအကြောင်းသည်အကြောင်းများကိုဆွေးနွေးလျှောက်ထားပါသည်။ စင်စစ်အားဖြင့် ဦးဉာဏဝံသသည် လယ်တီဆရာတော်ကြီးအား ပရမတ္ထဒီပနီကျမ်းနှင့်စပ်၍ လျှောက်ထားဖွယ်ရာများရှိသည်ဟုလည်းသိရသည်။ သို့ပါသော် လယ်တီဆရာတော်ကြီးက ဦးဉာဏဝံသလျှောက်ထားဖွယ်ရာများလျှောက်ထားပြီးသည့်နောက် ဦးဉာဏဝံသရေးသားသည့် ဥတ္တမင်္ဂဝိနိစ္ဆယကျမ်း၌ပါရှိသော မုတ်ဆိတ်ကျင်စွယ်တပ်ထားသည့် ဘုရားပုံကားချပ်ကိုမိမိအနီးမှယူပြီးလျှင် 'တို့ဘုရားရှင်က ဘယ်လိုပဲကြည်ညိုကြည်ညို အကြည်ညိုခံယူတော်မူပါတယ်။ မောင်ဉာဏဝံသက မုတ်ဆိတ်ကျင်စွယ်နဲ့မှ ကြည်ညိုချင်တယ်ဆိုရင်လည်း တို့ဘုရားရှင်က မုတ်ဆိတ်ကျင်စွယ်နဲ့ အကြည်ညိုခံတော်မူပါပဲ' ဟု အချက်ကျကျ မိန့်ဆိုတော်မူခဲ့ပါသည်။ ဤသို့ မိမိ၏မုတ်ဆိတ်ကျင်စွယ်ပါဘုရားပုံတော်ကိုပြ၍ သာယာပြေပြစ်သောစကားကို မိန့်ဆိုတော်မူသော လယ်တီဆရာတော်ကြီးအား ညောင်ချောင်းဆရာတော် ဦးဉာဏဝံသအဖို့မှာ ဘာမျှစကားမဆိုနိုင်တော့။ အသာနှုတ်ဆိတ်၍ ပြန်ကြွခဲ့ရပါသည်။

### လယ်တီပဏ္ဍိတလူထွက်မည့်သတင်း

လယ်တီဆရာတော်ကြီးသည် ဓနုဖြူမြို့မှပြန်ကြွခဲ့ပြီးနောက် ရန်ကုန်မြို့ ပုဇွန်တောင်ရပ်ညောင်ကုန်းကျောင်းတိုက်တွင် သီတင်းသုံးနေတော်မူပါသည်။ လယ်တီပဏ္ဍိတကိုယ်တော်မှာ ပျဉ်းမနားသို့ကြွသွားပါသည်။ ဤအချိန်တွင် 'လယ်တီပဏ္ဍိတကိုယ်တော် လူထွက်တော့မည်'-ဟူသောသတင်းသည်လည်း ပျံ့နှံ့၍လာပြန်ပါသည်။

---

*၁ အရှင်ဉာဏဝံသမဟာထေရ်၏ ဥတ္တမင်္ဂဝိနိစ္ဆယဒီပကာ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၀၂-ခုနှစ်။ (စာမျက်နှာ-၁၁)။

*၂ ပါရဂူ၏ နှုတ်ခမ်းမွေးဆရာတော်(ဆောင်းပါး)။ ငွေတာရီမဂ္ဂဇင်း၊ ၁၉၆၇-ခုနှစ်၊ ဩဂုတ်လ။ (စာမျက်နှာ-၆၉-၇၃)။ ညောင်ချောင်းဆရာတော်၏ နှုတ်ခမ်းမွေးအယူအဆကို မန်လည်ဆရာတော်ကြီးက မနှစ်သက်၍ 'ဘုရားရှင်၏ ဖင်မွေးအကြောင်း ရှင်းပြပါဦး'ဟု စောင်းချိတ်ရေးသော 'လုပ်ငန်းရယ်ပိုး နှုတ်ခမ်းကို သူကြည်ညိုသတဲ့' စသော စာချိုးတစ်ပုဒ်ကို ရေးသားတော်မူခဲ့ဖူးပါသည်။ ဆရာတော်ဦးဉာဏာဒိစ္စ၏ အဖိုးတန်မန်လည်ကဗျာများ။ ၁၉၇၆-ခုနှစ်။ (စာမျက်နှာ-၂၃၈)။

ထိုအချိန်၌ သီလရှင်ဆရာဒေါ်ဓမ္မစာရီ[*၁] သည် သီရိလင်္ကာမှပြန်ရောက်လာခဲ့ပြီး ရန်ကုန်မြို့၊ ဗဟန်းရပ်တွင် သံခိပ်အသင်းသူကုမ္မာရီများကို သံခိပ်သင်ပေးနေသည်။ ဒေါ်ဓမ္မစာရီသည် လယ်တီဆရာတော်ပို့ချသော ပရမတ္ထဒီပနီစာဝါနှင့် မူလဋီကာစာဝါတို့ကိုတက်ဖူးရာ ဆရာတော်ကြီးနှင့်ရင်းနှီးပြီးဖြစ်သည်။[*၂] ဒေါ်ဓမ္မစာရီအနေဖြင့် လယ်တီပဏ္ဍိတလူထွက်မည့်သတင်းကို ကဝိမျက်မှန်စာပုံနှိပ်တိုက်ပိုင်ရှင် ဒေါ်အေးမေတို့ထံမှကြားသိခဲ့ပြီး ထိုသတင်းကို ဆရာတော်ကြီးထံလျှောက်ထားခဲ့ပါသည်။ ဆရာတော်ကြီးက ရှေ့ပိုင်းတွင်ယုံတော်မမူပေ။ သို့ပါ၍ ဒေါ်ဓမ္မစာရီက လယ်တီပဏ္ဍိတကိုယ်တော် ဝှက်ထားသောအဝတ်အစားများကို ဆရာတော်ကြီးအား သက်သေအဖြစ်ပြသကြောင်း–စသည်ဖြင့်ပြောကြသည်။[*၃]

ဤသို့ ဒေါ်ဓမ္မစာရီက လယ်တီပဏ္ဍိတလူထွက်မည့်အကြောင်း ဆရာတော်ကြီးနားတော်ပေါက်ရန်လျှောက်ထားသည်–ဟူသောသတင်းကို လယ်တီပဏ္ဍိတကြားသိသည့်အခါ လယ်တီပဏ္ဍိတက 'ငါ့မှာ ဆရာလေးကိုအားကိုးရမယ်မှတ်နေတာ၊ ခုတော့ ရေသီတာက မီး,ထတောက်နေတယ်'ဟုပြောကြားကြောင်းနှင့် ဆရာလေးဒေါ်ဓမ္မစာရီထံသို့– 'ရေ၌ကျက်စားကြ ငါးများအဖို့ မိမိတို့အားထားရာရေပြင်တွင် မီးထ,တောက်ပါက ငါးများဘေးတွေ့ကြရသည်၊ ထို့အတူ ထက်ဝေဟင်၌ကျက်စားကြ ငှက်များအဖို့ မိမိတို့မှီတင်းရာဝေဟင်ပြင်တွင် မီးထ,တောက်ပါက ငှက်များဘေးတွေ့ကြရသည်'ဟူသောအဓိပ္ပာယ်ပါ အောက်ပါဂါထာနှစ်ပုဒ်ကိုရေးစပ်၍ ပေးပို့ခဲ့ပါသည်။

* နိဿယော ဣတိ မညန္တိ၊ မစ္ဆာ ဥဒကဂေါစရာ။
တမှာ အဂ္ဂိ ပဇ္ဇလန္တိ၊ ဇာတံ သရဏတောဘယံ။
* နိဿယော ဣတိ မညန္တိ၊ သကုဏာ နဘဂေါစရာ။
တမှာ အဂ္ဂိ ပဇ္ဇလန္တိ၊ ဇာတံ သရဏတောဘယံ။[*၄]

---

*၁ နောင်အခါ မင်းကွန်းတိပိဋကရေဆရာတော်ကြီး၏ လောကုတ္တရာမယ်တော်ကြီး၊ မင်းကွန်းဓမ္မနာဒတိုက် ဂူကလေးကျောင်းဆရာကြီးဒေါ်ဓမ္မစာရီအဖြစ်ထင်ရှားပါသည်။

*၂ ဒေါ်ဓမ္မစာရီသည် သက္ကရာဇ် ၁၂၄၀ (အေဒီ ၁၈၇၈–ခုနှစ်)ဖွား၊ သက္ကရာဇ် ၁၂၅၇ (အေဒီ–၁၈၉၅)ခုနှစ်တွင် သီလရှင်ဝတ်ခဲ့သည်။ သက္ကရာဇ် ၁၂၅၇–ခုနှစ်မှ သက္ကရာဇ် ၁၂၆၀–ပြည့်အထိ (အေဒီ ၁၈၉၅–၁၈၉၈)အထိ မင်းကွန်းမှာနေပြီး၊ သက္ကရာဇ် ၁၂၆၀–ပြည့်တွင် သီဟိုဠ်သို့ပညာသင်သွားခဲ့သည်။ အရှင်ဃောသိတ(ရေနံ့သာ)၏ သစ္စဝါဒီဋီကာကျမ်းပြုသီလရှင်ဆရာကြီးဒေါ်ဓမ္မစာရီ၏ဘဝဖြစ်စဉ်အတ္ထုပ္ပတ္တိ။ သင်းပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၉၂–ခုနှစ်။ (စာမျက်နှာ–၈၊ ၉)။

*၃ ဤအချက်များကို ဆရာကြီးဒေါ်ဓမ္မစာရီကိုယ်တိုင် လူထုဒေါ်အမာအား မိန့်ဆိုချက်များဖြစ်သည်။ လူထုဒေါ်အမာ၏ တိပိဋကရေသာသနာ့မိခင်ကြီး။ ဥက္ကာလင်းဓမ္မစာပဒေသာ။ ၁၉၈၄–ခုနှစ်၊ နိုဝင်ဘာလ။ (စာမျက်နှာ–၆၈)။

*၄ လူထုဒေါ်အမာ၏ တိပိဋကရေသာသနာ့မိခင်ကြီး။ ဥက္ကာလင်းဓမ္မစာပဒေသာ။ ၁၉၈၄–ခုနှစ်၊ နိုဝင်ဘာလ။ (စာမျက်နှာ–၇၀)။

## လယ်တီပဏ္ဍိတကိုခေါ်ယူဆုံးမခြင်း

မင်းလှမြို့၌တာဝန်ထမ်းဆောင်နေသော တပည့်ဒါယကာရင်း နယ်ပိုင်ဝန်ထောက်ကြီး ဦးသိမ်းမောင်၊ ဒေါ်တော[*၁] တို့ကပင့်လျှောက်သည့်အတွက် လယ်တီဆရာတော်ကြီး မင်းလှမြို့သို့ကြွတော်မူပါသည်။ မင်းလှမြို့စံကျောင်းတွင် လယ်တီဆရာတော်ကြီးသီတင်းသုံးနေစဉ် လယ်တီပဏ္ဍိတကိုယ်တော်အားဆင့်ခေါ်လိုက်ရာ မကြာမီရက်အတွင်းမှာပင် ဆရာတော်ကြီး ခြေတော်ရင်းသို့ရောက်ရှိလာလေသည်။

လယ်တီပဏ္ဍိတရောက်လာသော် ဆရာတော်ကြီးက နံနက်ဆွမ်းစားပြီးချိန်မှစ၍ ကာမဂုဏ်တို့၏အပြစ်တို့ကို တစ်ခုစီတစ်ခုစီရှင်းလင်းမိန့်ကြားတော်မူရာ ညနေသို့တိုင်ခဲ့သည်။ လယ်တီပဏ္ဍိတသည် ဆရာတော်ကြီးမိန့်ဆိုတော်မူသမျှကို ဘာမျှပြန်၍မလျှောက်ဘဲ အသာအယာငြိမ်သက်စွာနာယူနေသည်။ လယ်တီဆရာတော်ကြီးက လယ်တီပဏ္ဍိတအား စူးစူးစိုက်စိုက်ရှုတော်မူပြီး 'ဟဲ့-ပဏ္ဍိတ၊ သင်လူထွက်ချင်သေးသလော'ဟုမေးတော်မူလိုက်၏။ လယ်တီပဏ္ဍိတသည် ဘာမျှပြန်မလျှောက်ဘဲ အလွန်ငြိမ်သက်၍ မျက်နှာကိုအောက်ချကာသာနေပေသည်။ ထိုသောအခါ ဆရာတော်ကြီးသည် လွန်စွာစိတ်ဖြစ်တော်မူပြီး အနီးရှိတောင်ဝှေးကိုဆွဲယူလျက်-

'သယ်-ပဏ္ဍိတ၊ နင် ငါ့ကိုဘာထင်သလဲ'ဟုမိန့်ဆိုကာ ရိုက်ဟန်ပြုတော့သည်။ လယ်တီပဏ္ဍိတမှာ ဆရာတော်ကြီးအလွန်စိတ်ဆိုးနေကြောင်းသိသဖြင့် ဆရာတော်ကြီးရှေ့တွင် ဆက်၍ထိုင်နေခြင်းငှာမဝံ့တော့ဘဲ ရုတ်ချည်းထ,ကာပြေးသည်မှာ ဘုတာရုံသို့အရောက်ပင်။

လယ်တီပဏ္ဍိတကိုယ်တော်သည် ကြည်ညိုကြသောဒါယကာ၊ဒါယိကာမကြီးများ တားမြစ်နေသည့်ကြားမှပင် သာသနာ့ဘောင်၌မမွေ့လျော် မပျော်ပိုက်သည့်အတွက် သက္ကရာဇ် ၁၂၆၉-ခုနှစ်၊ တပို့တွဲလဆန်း ၇-ရက် (အေဒီ-၈၊ ဖေဖော်ဝါရီလ၊ ၁၉၀၈-ခုနှစ်) အသက်-၃၀ အရွယ်၊ ရဟန်း ၉-ဝါအရတွင် လူ့ဘဝသို့ပြောင်းရွှေ့ခဲ့ပါသည်။ လူ့ဘဝရောက်သော် ပျဉ်းမနားမြို့တွင် ဦးအောင်ဒွန်း၊ ဒေါ်ငြိမ်းတို့၏သမီး မမကြီးနှင့်စုံဖက်ခဲ့လေသည်။[*၂]

## တောင်ခွင်သာသနာပိုင်သို့တိုင်ကြားစာ

လယ်တီဆရာတော်ကြီး ပရမတ္ထသံခိပ်အသင်းများကိုတည်ထောင်ခြင်းသည် အဘိဓမ္မာသာသနာကို ဤနိုင်ငံအဝန်း၌ပြန့်နှံ့စေရန် သာသနာပြုတော်မူခြင်းဖြစ်ကြောင်းကို အထက်အောက်နိုင်ငံအနှံ့ သိကြပြီးဖြစ်သည်။ သံခိပ်အသင်းများကိုအကြောင်းပြုပြီး လယ်တီဆရာတော်ကြီးအား တစ်နိုင်ငံလုံးကဦးခိုက်လာကြပုံမှာလည်း ရှေးရှေးကထင်ရှားတော်မူခဲ့ကြသော မဟာထေရ်ကြီးများတို့ ဘုန်းတန်ခိုးကြီးမားတော်မူကြပုံနှင့်မတူ တစ်မူခြား၍ ပရိသတ်အင်အား ပိုမို

*၁ နောင်အခါ တြိရတနာဘမ်းပရုပ်ဆီပိုင်ရှင် ဦးသိမ်းမောင်၊ ဒေါ်တော-တို့ဖြစ်သည်။

*၂ လယ်တီဦးကောဝိဒ၏ လယ်တီပဏ္ဍိတဆရာမောင်ကြီး၏ ဇနပုဒ္ဓတ္ထိကထာ။ (စာမျက်နှာ-၃၇၊ ၃၈)။

များပြားနေရကား ထိုခေတ်ထိုအခါက လယ်တီဆရာတော်ကြီးကိုဆည်းကပ်နေကြပုံမှာ ဘုရားငယ်တစ်ဆူကို ဆည်းကပ်နေသလို ဖြစ်နေလေသည်။

သို့ဖြစ်၍ မြင်းခြံမြို့ ကိုးဆောင်အုတ်ကျောင်းဆရာတော်ဦးဝိပုလ္လ*[၁] က လယ်တီဆရာတော်ကြီးသည် သံခိပ်ကြောင့် ဘုရားတစ်ဆူအဖြစ်ထင်ရှားနေပုံကို လေးဆစ်ချိုးတစ်ပုဒ်ဖွဲ့ဆိုတော်မူခဲ့သည်မှာ–

သာသနာ ကွယ်မည်ပသော်လဲ၊
အရွှာရွှာ နယ်လည်ကြွပါတဲ့၊
လယ်တီဘုရာ့ ဆရာတော်–။
အကြဲနိပ်ပါပေ့ သံခိပ်ဘုတ်စာ*[၂] နှင့်၊
နိရုဒ္ဒါ*[၃] သဂြိုဟ်ဖြင့်မေးလေရဲ့၊
တွေးကျက်ကြနော်–။
ပြောစရာ ဇမ္ဗူမှာရောက်စေဘို့၊
ဂေါတမာတဆူနောက်တွင်မှ၊
ဂေါတမောက်အတုဘော်၊
ယခုပေါ်ပါတဲ့နောက်ဘုရား–။
ကျွဲနွားကိုညှာ ဘဲ,ငါးသတ္တဝါနှင့်၊
ကြက်ဝက်ပါ ချန်မထားတယ်၊
စားစေတဲ့လား–။*[၄]

ဆရာတော်ဦးဝေပုလ္လသည် ဤလေးဆစ်ချိုးကို လယ်တီဆရာတော်ကြီးအား ပုဂ္ဂိုလ်ရေးအနေဖြင့် အပြစ်တင်လို၍ရေးခြင်းမဟုတ်။ သံခိပ်ကျမ်းတွင်ကျယ်လွန်း၍ မူလဖြစ်သောသဂြိုဟ်ကျမ်းတိမ်ကောသွားမည်ကိုစိုးသောကြောင့်လည်းကောင်း၊ သတ္တဝါတို့အပေါ်မေတ္တာထားရာ၌ နွား,ကျွဲတို့အပေါ်၌သာလွန်ကဲနေ၍ အခြားသတ္တဝါတို့အပေါ်တွင်လည်း မေတ္တာညီညာမျှတစေလိုသောကြောင့်လည်းကောင်း–ရေးဖွဲ့ခြင်းဖြစ်သည်ဟု ပုဂံဝန်ထောက်ဦးတင်က အကြောင်းပြရေးသားခဲ့ဖူးပါသည်။*[၅]

---

*[၁] အဂ္ဂမဟာပဏ္ဍိတ ကိုးဆောင်ပရိတ်ကြီးနိဿယသစ်ကျမ်းပြုဆရာတော်ကြီးဖြစ်သည်။

*[၂] ဘုတ် = အင်္ဂလိပ်စကား Book (=စာအုပ်)ကိုဆိုလိုသည်။

*[၃] သဂြိုဟ်ကျမ်းကိုစိရင်ပြုစုသော အရှင်အနုရုဒ္ဓါမထေရ်ကိုဆိုလိုသည်။

*[၄] ပုဂံဝန်ထောက်ဦးတင်၏ ကဗျာဗန္ဓသာရကျမ်း။ (စာမျက်နှာ–၅၃၃)။

*[၅] ပုဂံဝန်ထောက်ဦးတင်၏ ကဗျာဗန္ဓသာရကျမ်း။ (စာမျက်နှာ–၅၃၃)။

သို့ပါသော် ဤလေးဆစ်ချိုးပါ- 'ပြောစရာ ဇမ္ဗူမှာရောက်စေဘို့၊ ဂေါတမာတဆူနောက်တွင်မှ၊ ဂေါတမောက်အတုဘော်၊ ယခုပေါ်ပါတဲ့နောက်ဘုရား'-ဟူသောအဖွဲ့ကား လယ်တီဆရာတော်ကြီးသည် ယခုခေတ် ဤဇမ္ဗူတွင် နောက်ထပ်ပွင့်ပေါ်လာသော ဘုရားတစ်ဆူအလား (တစ်နည်း) ဂေါတမဘုရားရှင်နောက်ပွင့်လာသော ဂေါတမောက်*၁ ဘွဲ့ခံ ဘုရားတစ်ဆူဟု ဆိုလိုဟန်ရှိနေသည်။*၂

အချို့သောပုဂ္ဂိုလ်တို့ကမူ လယ်တီဆရာတော်ကြီး၏သံခိပ်အသင်းများနှင့်စပ်၍ သာသနာတော် ညှိုးနွမ်းထိခိုက်နိုင်ကြောင်း-စသည်ကို ထိုခေတ်က သာသနာတော်တွင်အကြီးမားဆုံးပုဂ္ဂိုလ်ဟု သာသနာပိုင်အဖြစ်တင်မြှောက်ထားသော တောင်ခွင်သာသနာပိုင်ကြီး*၃ ထံသို့ပင် စာရေးလျှောက်ထားကြသေးသည်။

လျှောက်လွှာပါဘုရား...။*၄

မော်လမြိုင်မြို့၊ သာယာကုန်းရပ်၊ ကမ်းနားလမ်း၊ တိုက်နံပါတ်-၁၈ နေ ဒါယကာအောင်ညိမ်း ဆရာတော်ဘုရားကြီး၏ခြေတော်စုံကိုဦးဖြင့်တိုက်၍လျှောက်ကြားအသနားတော်မြတ်ခံလိုက်ပါသည်။ ဗုဒ္ဓဘာသာမြန်မာလူမျိုးတို့၏ကိုးကွယ်ကြီးအစစ်ဖြစ်တော်မူသော ဆရာတော်အရှင်သခင်သူမြတ်ကြီးဘုရား။ သိသာတော်မူရန် လျှောက်ထားလိုသောအချက်မှာ အောက်ပါအတိုင်းဖြစ်ပါသည်ဘုရား။

၁။ လယ်တီဆရာတော်ရေးသားသော ပရမတ္ထသံခိပ်ကျမ်းကိုသင်ကြားသူ မိန်းမပျိုကလေးများက လယ်တီဆရာတော်ရှေ့မျက်မှောက်သို့ လာရောက်၍ ပရမတ္ထသံခိပ်ကျမ်းလင်္ကာ နှုတ်တက်ရပြီးကို သာယာစွာသံပြိုင်ဆိုပြီး ကန်တော့ပူဇော်ခြင်း၊ ဆရာတော်ကလည်း မိန်းမပျိုလေးများကို လယ်ပတ်စွာအဓိပ္ပာယ်သရုပ်ခွဲလျက် ပြသဟောပြောခြင်း၌ ရဟန်းတော်တို့၏ရှေ့လမ်းဟောင်းမပျက် ဓမ္မခံကြောင်းဆက်လျက် တရားတော်သက်သက် သာသနာပြုအစစ် ဖြစ်ကြီးဖြစ်၍

---

*၁ 'ဂေါတမ'နှင့် 'ဂေါတမောက်'သည် စကားဖို, စကားမ-ဟူ၍လည်းယူနိုင်သည်။

*၂ နိရုတ္တိဒီပနီနိဒါန်းပြုဆရာ ဆရာကြီးဦးထွန်းလှိုင်(ဝိနယပါရဂူ)ကမူ 'ဤလေးဆစ်ချိုးသည် ကိုးဆောင်ဆရာတော်ကြီးက လယ်တီဆရာတော်ကြီးအား ခနဲ့၍ရေးခြင်းဖြစ်သော်လည်း၊ လယ်တီဆရာတော်ကြီး၏ ကျေးဇူးတရားကြီးမားပုံကို သိမြင်ကြသောအခါ အဆိုပါလေးဆစ်ချိုးသည် လယ်တီဆရာတော်ကြီးအား ခနဲ့ရာ,လှောင်ပြောင်ရာမရောက်မူ၍ အကယ်ပင် လယ်တီဆရာတော်ကြီး၏ ဂုဏ်ကို ချီးကျူးစပ်ရာရောက်သော ကဗျာတစ်ပုဒ်အလား ဖြစ်နေပေတော့သည်'ဟု ထိုနိဒါန်း၌ ထည့်သွင်းရေးသားခဲ့ပါသည်။ လယ်တီဆရာတော်ကြီး၏ နိရုတ္တိဒီပနီ။ ၁၉၇၀-ပြည့်နှစ်။ (စာမျက်နှာ-ခု)။

*၃ တောင်ခွင်သာသနာပိုင်အရှင်ဝိသုဒ္ဓသည် အေဒီ ၁၉၀၃-ခုနှစ်၊ နိုဝင်ဘာလ ၁၃-ရက်နေ့တွင် သာသနာပိုင်ဖြစ်တော်မူပါသည်။

*၄ မန္တလေးတောင်ခွင်တိုက် တောင်ခွင်သာသနာပိုင်၏ စာကြည့်တိုက်တွင် သာသနာပိုင်နှင့်ဆိုင်သမျှ စုဆောင်းထားရှိရစ်သည့် စာရွက်စာတမ်းများမှရရှိသည့်အထောက်အထားဖြစ်ပါသည်။ စန်းမြမြ၏ ပထမလယ်တီဆရာတော်ဘုရားကြီး၏ စွမ်းဆောင်ချက်သမိုင်း။ လက်နိပ်စက်မူ။ ၁၉၇၄-ခုနှစ်။ (စာမျက်နှာ ၁၄၂-၁၄၅)။

ဗုဒ္ဓရှင်တော်ဘုရား၏သာသနာ ကြီးပွားရာကြီးပွားကြောင်း အမှန်ဟုတ်,မဟုတ် မသိပါဘုရား။

၂။ မော်လမြိုင်မြို့ရှိ ရဟန်းတော်အချို့တို့သည် နံနက်ရှစ်နာရီ, ကိုးနာရီမှစ၍ မြို့တွင်းသို့ဝင်ပြီးသော် ဒါယကာ,ဒါယိကာမတို့အိမ်တက်ရောက်လျက် စုရုံးပြီးရှိသော မိန်းမပျိုကလေးများကို ပရမတ္ထသံခိပ်စာပို့ချခြင်း၊ ထိုသင်ကြားပို့ချသော ရဟန်းတော်သည် နေ့လည်ဆွမ်းကို ထိုအသင်းသား ပရမတ္ထသံခိပ်တရား သင်ကြားလေ့ကျက်သူ မိန်းမပျိုလေးများက ကပ်လှူသဖြင့် ဆွမ်းသုံးဆောင်ပြီး၊ ညနေခြောက်နာရီ, ခုနစ်နာရီမှ ထိုမိန်းမပျိုကလေးများတို့၏မျက်မှောက်မှထ,၍ မိမိတို့နေထိုင်ရာ သီတင်းသုံးရာကျောင်းသို့ပြန်ကြွပါသည်။ ထိုကဲ့သို့အပြုအမူသည် ရှေးရဟန်းကောင်းတို့ ကျင့်ရိုးစဉ်လာ တရားတော်ဒေသနာနှင့် ညီ,မညီ မသိပါဘုရား။

၃။ လယ်တီဆရာတော်ဘုရားကို ကန်တော့ကြသော မိန်းမပျိုလေးတို့သည် အသံကို အနိမ့်အမြင့် သာယာစွာရွတ်ဆိုခြင်း၌ သင့်,မသင့် ပြောဆိုကြရာ ထိုဆရာတော်ဘုရား၏တပည့်များက ထိုကဲ့သို့ သာယာစွာရွတ်ဆိုကြစေခြင်းငှာ ဆရာတော်ဘုရားကြီးသည် လက်ာပြုလုပ်ထားသည်မဟုတ်ပါလော၊ ထိုကြောင့် အသံကို အနိမ့်အမြင့် အတိုအရှည် ဆိုသင့်ဆိုထိုက်လှတော့သည်သာတည်း–ဟု ဟောပြောပါသည် သင့်,မသင့်ပါဘုရား။

၄။ အထက် ၁၊ ၂၊ ၃ အချက်စုကို မတော်မသင့် မိန်းမနှင့်ရဟန်းတော်တို့ တရားအလွန်ပင်ကွာခြားလှသည်။ မည်ကဲ့သို့သာသနာပြုပုံနည်းဟု အပြစ်စကားပြောကြားသူ ရဟန်းရှင်လူတို့ကို ပရမတ္ထသံခိပ်ဆရာပြုလုပ်သူရဟန်းတော်နှင့် ပရမတ္ထသံခိပ်သင်ကြားသူ မိန်းမပျိုကလေးတို့ စိတ်ထားတတ်လျှင်ပြီးရောပ၊ မနာလိုက္လာသာဆိုးနှင့်ပြောဟောသည် ဓမ္မန္တရာယ်ပြုလုပ်သည်၊ သို့အတွက် အပြစ်မှုသူတို့ ကြီးလေးလှစွာသောရဲဘေး၌ နစ်မွန်းရာသောအကြောင်းစစ်စစ် ဧကန်ဖြစ်သည်ဟု ပရမတ္ထသံခိပ်ဆရာ ရဟန်းတော်များနှင့် ၎င်းအသင်းပါလူစုတို့က ဟောပြောပြသ ဩဝါဒပေးလျက်ရှိသည်ကို တွေ့မြင်ကြားသိရပါသည်။ ထိုတရားအတိုင်း အမှန်ပင်ရှုရမည်၊ မရှုရ ပြစ်ပယ်ရမည်ကို ခြားနားစွာမသိနိုင်ပါဘုရား။ ထိုပရမတ္ထသံခိပ်တရား သင်ကြားလေ့ကျက်သူတို့မှာ မိန်းမပျိုကလေးများကိုသာ တွေ့မြင်ဖူးပါသည်။ အိမ်ထောင်သည်မိန်းမနှင့် အရွယ်လွန်သူမိန်းမတို့သည် ပရမတ္ထသံခိပ်တရားကို သင်ကြားလေ့ကျက်သည်ဟုမကြားဖူးမတွေ့ဖူး မကြုံဖူးပါဘုရား။

ဆိုခဲ့ပြီးသော ၁၊ ၂၊ ၃၊ ၄ အချက်စု၌ မသင့်ဟုဟောပြောပြသ ဩဝါဒ ပေးသူကို အပြစ်မှုသူသာများပြားလှသည်။ တပည့်တော်တို့ အောက်ပြည်တစ်လွှား ဒါယကာနှင့် ဒါယိကာမများသည် မည်ကဲ့သို့အတည်ကျမှတ်သား၍ နှလုံးထားရ မည်ကို ကျေးဇူးရှင်သခင်ဆရာတော်ဘုရားကြီးမှတစ်ပါး အားကိုးမှီခိုရာမရှိပါပြီ ဘုရား။

တပည့်တော်တို့ ဗုဒ္ဓဘာသာမြန်မာလူမျိုးတို့၌ အားထားမှီခိုရန် ဗုဒ္ဓရှင်တော် ဘုရား၏သာသနာပြု ဘုရင်အရှင်သခင်မရှိသည့်အတွင်း ပြည်ပိုင်မင်းအင်္ဂလန် ရာဇာတို့သည် ဘုရားရှင်သာသနာတော်၌ ရဟန်းရှင်လူပြည်သူအပေါင်းတို့ နှစ်သက်မြတ်နိုးရာ သံဃနာထ သံဃဥက္ကဋ္ဌအဖြစ်ဖြင့် တင်ထားပူဇော် အလုံးစုံ သောဗုဒ္ဓဘာသာဝင်သူတော်စင်တို့၏ ညွှတ်ပြောင်းမှီခိုရာ ကေန်စင်စစ် ဖြစ်တော် မူသည့်အတိုင်း တရားကျမ်းဂန် လမ်းမှန်နှင့်ညှိနှိုင်း၍ မဆိုင်းမဆုတ် အားထုတ် ညွှန်ကြား မည်ကဲ့သို့မှတ်သားရမည်ကို ဩဝါဒစကားဖြင့် ရေးသားလျက် တပည့် တော်တို့ အောက်ပြည်တစ်လွှား ဒါယကာ, ဒါယိကာမများတို့ကို သိကြားစေရန် မိန့်တော်သံစာ ပေးသနားတော်မူပါလျှင် လမ်းမှန်လမ်းကောင်း ကျင့်ဟောင်း အစဉ် မည်သို့ပင်ဟု ငြိုငြင်မရှိ တည့်မတ်လှစွာ သိကြရတော့မည်ဟု ယုံကြည် စိုက်စိုက် နှလုံးပိုက်၍ ဦးစိုက်လျှောက်ကြား အသနားတော်မြတ်ခံလိုက်ပါသည် သံဃနာထ သံဃဥက္ကဋ္ဌ ဗုဒ္ဓဘာသာဝင် လူသူတော်စင်တို့ ခိုကိုးမှီခိုရာကြီး အစစ်ဖြစ်တော်မူပေသော ကျေးဇူးအရှင်သခင်ဆရာတော်ဘုရား။

အထက်အမည်ပါအတိုင်း စာအိတ်လိပ်တပ်၍ အစိုးရစာတိုက်က တပည့် ဒါယကာ ငအောင်ညိမ်းထံသို့ အမိန့်စာပေးသနားပါလျှင် အမြန်ရောက်နိုင်ပါ သည်ဘုရား။ အမိန့်စာအိတ်ပျောက်ဆုံးခြင်းမရှိရအောင် ရေစစ္စတြီပြုလုပ်ပေးသနား တော်မူရန် ယခုစာအိတ်တည်း၌ တံဆိပ်တော်ခေါင်းထည့်ပြီးလျှင် ပေးပို့ကပ်လှူ လိုက်ပါသည် အရှင်သူမြတ်ကြီးဘုရား။ တံဆိပ်တော်ခေါင်းတစ်ခုလျှင် တစ်ပဲတန် (၁၆)လုံး ထည့်လိုက်ပါသည်ဘုရား။

မြန်မာသက္ကရာဇ် ၁၂၆၉–ခုနှစ်၊ တပေါင်းလဆုတ် (၂)ရက်နေ့၊ ခရစ်သက္ကရာဇ် ၁၉၀၈–ခုနှစ်၊ မတ်လ (၁၈)ရက်နေ့တွင်ဆက်သလိုက်သော လျှောက်လွှာပါဘုရား။

မောင်အောင်ညိမ်း
လျှောက်ကြားသူ။

မြောင်းမြသို့

သက္ကရာဇ် ၁၂၇၀–ပြည့်နှစ်၊ ကဆုန်လဆန်း ၅–ရက် (အေဒီ ၁၉၀၈–ခုနှစ်၊ မေလ ၄–ရက်) နေ့တွင် မြောင်းမြမြို့သူမြို့သားအပေါင်းတို့က ပင့်လျှောက်ကြသည့်အတွက် လယ်တီဆရာတော် ကြီးသည် မြောင်းမြမြို့သို့ သင်္ဘောဖြင့်ကြွတော်မူခဲ့ပါသည်။ မြောင်းမြမြို့သို့ရောက်ရှိလျှင် တရား

ဟောမဏ္ဍပ်ကြီးအတွင်း၌ တရားနာပရိသတ်သုံးထောင်ကျော်မျှသော ပရိသတ်ကြီးအား သေရည်သေရက်သောက်စားခြင်းအပြစ်ကို ပြဆိုရာဖြစ်သော ယစ်မျိုးတရားတော်ကြီးကို ဟောကြားတော်မူပါသည်။[*၁]

**တေစတ္တာလီသမဝါကပ်တော်မူခြင်း**

သက္ကရာဇ် ၁၂၇၀-ပြည့်နှစ်၊ ဝါဆိုလ (အေဒီ ၁၉၀၈-ခုနှစ်၊ ဇူလိုင်လ)တွင် မော်လမြိုင်မြို့နေတောင်ပေါက်ကျောင်းဒါယကာကြီးဦးတိုးလုံအမှူးဆောင်သော မြို့သူမြို့သားတို့က မိမိတို့မြို့ရွာတွင် ဝါကပ်ဆိုတော်မူပါမည့်အကြောင်း လျှောက်ထားတောင်းပန်ခဲ့ကြသည်ကိုအကြောင်းပြု၍ လယ်တီဆရာတော်ကြီးသည် နောက်ပါသံဃာများစွာခြံရံလျက် ရန်ကုန်မြို့မှ မော်လမြိုင်မြို့သို့ သင်္ဘောဖြင့်ကြွတော်မူခဲ့ခြင်းဖြစ်ပါသည်။ လယ်တီဆရာတော်ကြီး မော်လမြိုင်မြို့သို့ရောက်ရှိလျှင် မော်လမြိုင်မြို့၊ ကျိုက်သံလန်တောင်တန်းရှိ အောင်လံတိုင်(ခေါ်) အလံတိုင်ဘုရားတောင်ဘက်နေရာကွက်လပ်ကြီးတွင် အများနှင့်စုပေါင်း၍ဆောက်လုပ်ထားသော တောင်ပေါ် ဝါဆိုစကြံကျောင်းသို့ပင့်ဆောင်ခဲ့ကြသည်။ ဤမော်လမြိုင်မြို့၊ ကျိုက်သံလန်တောင်ရိုး အလံတိုင်ဘုရားအနီး ဝါဆိုစကြံကျောင်းတွင် လယ်တီဆရာတော်ကြီးသည် (၄၃)ကြိမ်မြောက်တေစတ္တာလီသမဝါကိုကပ်ဆိုတော်မူပါသည်။[*၂]

**ပလိပ်ကပ်ရောဂါ**

သက္ကရာဇ် ၁၂၇၀-ပြည့် ဝါတွင်းကာလ (အေဒီ ၁၉၀၈-ခုနှစ်၊ ဇူလိုင်လ)တွင် လယ်တီဆရာတော်ကြီး မော်လမြိုင်မြို့၊ ကျိုက်သံလန်တောင်ရိုး၌ဝါကပ်ဆိုနေစဉ် မော်လမြိုင်မြို့သို့ ပလိပ်ရောဂါကူးစက်ပြန့်နှံ့လာခဲ့ပါသည်။[*၃] မော်လမြိုင်မြို့သို့ပြန့်ပွားလာသော ထိုပလိပ်ကပ်ရောဂါကြောင့် မြို့သူမြို့သားများပျက်စီးကြရ၊ ဘေးဒုက္ခရောက်ကြရသဖြင့် မြို့သူမြို့သားတို့၏သောကအပူမီးအရှိန်သည် မြို့၏အမြင့်ပိုင်းရှိ ကျိုက်သံလန်တောင်ရိုးပေါ်၌ တရားဘာဝနာဖြင့်မွေ့လျော်ပျော်ပိုက်နေတော်မူသော လယ်တီဆရာတော်ကြီးထံတော်သို့ကူးစက်ရောက်ရှိခဲ့ရလေသည်။

လယ်တီဆရာတော်ကြီးသည် မန္တလေးမြို့ စံကျောင်းတိုက်၌ ပဋ္ဌင်းပျိုဘဝနေစဉ်အခါမှစ၍ သိက္ခာဝါတော်ကြီးရင့်၊ လယ်တီတိုက်တာတည်ထောင်ပြီးသည့်အခါတိုင် သူနာရဟန်းတို့ကိုပြုစုရန် အလွန်လိုလားဆန္ဒရှိတော်မူလေရာ ယခုကဲ့သို့ ပလိပ်ရောဂါသတင်းကိုကြားရတော်မူသောအခါ ဒါယကာ,ဒါယိကာမများအပေါ်၌ လွန်စွာကရုဏာဖြစ်တော်မူခဲ့ပါသည်။ 'မည်သည့်ဘက်မှကူညီထောက်ပံ့ရပါမည်နည်း'ဟူ၍လည်း စဉ်းစားတော်မူခဲ့ပါသည်။

စင်စစ်အားဖြင့် ပလိပ်ရောဂါသည် သက္ကရာဇ်-၁၂၆ရ၊ ၁၂၆၈၊ ၁၂၆၉-ခု (အေဒီ-၁၉၀၅၊ ၁၉၀၆၊ ၁၉၀၇)ခုနှစ်များတွင် မြန်မာနိုင်ငံအတွင်း၌စတင်ဖြစ်ပေါ်ခဲ့ပြီး ထိုရောဂါမှာ အဖျားကြီး

---

[*၁] လယ်တီဆရာတော်ကြီး၏ လယ်တီဟောကိန်းတရားစာ။ (စာမျက်နှာ ၁၈၈-၁၉၇)။

[*၂] ဦးဘသန်း၏ ဦးတိုးလုံအတ္ထုပ္ပတ္တိ။ ၁၃၁၂-ခုနှစ်။ (စာမျက်နှာ-၃၉)။

[*၃] ဦးဘသန်း၏ သမားဂုဏ်ရည်ကျမ်း။ ၁၉၇၂-ခုနှစ်။ (စာမျက်နှာ-၂၂၂)။

တစ်မျိုးဖြစ်လေသည်။ ယင်းအဖျားရောဂါကို ဆရာဝန်များက 'ပလိပ်[*၁] ကပ်ဖျားရောဂါ' ဟု ခေါ်ဝေါ်ခဲ့သည်။ ယင်းအဖျားနာခြင်းကိုကုသဖို့ရာ 'ဆေးမရှိ'–ဟုသိရှိရပါသည်။[*၂]

ဤသို့ ကုသရာဆေးမရှိသော ပလိပ်ကပ်ရောဂါသည် အလွန်ကြောက်စရာကောင်းသော ဘေးအန္တရာယ်ကြီးတစ်ခုဖြစ်ပြီး ထိုရောဂါဆိုးသည် ၁၉၀၆–ခုနှစ်တွင် မန္တလေးမြို့ကစတင်ခဲ့သည်ဟူ၍လည်း အမှတ်အသားရှိသည်။[*၃] ၁၉၀၇–ခုနှစ်၌ အသက်(၁၇)နှစ်သားအရွယ်ရောက်နေပြီဖြစ်သော စာရေးဆရာရွှေဥဒေါင်း(အေဒီ ၁၈၈၉–၁၉၇၃)ဖြစ်လာမည့် ဦးဖေသိန်းက သူ၏ တစ်သက်တာမှတ်တမ်းစာအုပ်တွင် မန္တလေးမြို့၌ ပလိပ်ရောဂါစတင်ဖြစ်ပျက်ခဲ့ပုံတို့ကို အောက်ပါအတိုင်းရေးသားမှတ်တမ်းတင်ထားခဲ့ပါသည်။

'၁၉၀၆–ခုနှစ်ကုန်ကာနီးတွင် မြန်မာပြည်သို့ အင်္ဂလန်ပြည်မှ ဝေလမင်းသား (Prince of Wales) အလည်အပတ်ရောက်လာ၍ များမကြာမီတွင် ရန်ကုန်မြို့နှင့် မန္တလေးမြို့ကြီးများတွင် ပလိပ်ရောဂါအကြီးအကျယ်ဖြစ်လေတော့သည်။ ထိုစဉ်က ကောလာဟလစကားအချို့ကို ကျွန်ုပ်မှတ်မိသေး၏။ အချို့က မန္တလေးမြို့သို့ ဝေလမင်းသားရောက်လာစဉ် အလွန်စည်ကားသည်ကိုမြင်၍ မင်းသားက အရာရှိများအား 'စည်ကားလွန်းအားကြီးသည်'ဟုပြောသောကြောင့် လူဦးရေပေါများခြင်း ပြဿနာကိုဖြေရှင်းရန်အတွက် ဗြိတိသျှအစိုးရက ပလိပ်ရောဂါကို တမင်တကာ ဖန်တီးသည်ဟုပြောကြရာ ယုံကြည်သူအတော်များသည်ကိုတွေ့ရ၏။ အချို့ကလည်း အစိုးရသည် အရပ်ထဲ၌ ပလိပ်ရောဂါပိုးများကို လူငှား၍လွှတ်ကြောင်း၊ တစ်နေ့သော် ပလိပ်ပိုးလွှတ်သောလူကို(ပိုးပါသောကြွက်နှင့်တကွ)အရပ်သားများက ဝိုင်းဖမ်းပြီး ရိုက်နှက်မေးမြန်းစစ်ဆေးကြရာတွင် ထိုလူကငွေရ၍လုပ်ပါသည်ဟုဖြောင့်ချက်ပေးကြောင်း၊ ထိုအခြင်းအရာကို ကျွန်ုပ်၏အစ်ကိုမောင်ပုက ကိုယ်တိုင်မြင်ခဲ့ရသည်ဟု ကျွန်ုပ်အားပြောပြ၍ ကျွန်ုပ်ပင်ယုံခဲ့ဖူးပါသည်။[*၄] x□x□x □x။ ထိုအချိန်၌ မန္တလေးမြို့ အခြေအနေမှာ ကြောက်စရာကြီးတစ်ခုဖြစ်နေပါတော့သည်။ ထွက်ပြေးတိမ်းရှောင်နေကြသူတွေ အတော်များနေသဖြင့် မြို့မှာခြောက်ကပ်တိတ်ဆိတ်လျက်ရှိရာ လမ်းလျှောက်သွားသည့်အခါ လမ်းတစ်ဖက်တစ်ချက်တွင် သုံးအိမ်မှာတစ်အိမ်၊ လေးအိမ်မှာတစ်အိမ်–စသည်ဖြင့် နေထိုင်သူမရှိတော့သည်ကိုတွေ့ရ၏။ နေသူမရှိသည့်

*၁ Plague. လယ်တီဆရာတော်ကြီးက 'ပလိပ်ရောဂါ' ကို ပါဠိဘာသာဖြင့် 'အဟိတဝါတရောဂ = မြေနဂါးတို့၏ လေအခိုးသင့်၍ဖြစ်သောရောဂါ' ဟုဖော်ပြပါသည်။ လယ်တီဆရာတော်ကြီး၏ ရောဂန္တရဒီပနီကျမ်း။ ၁၉၅၅–ခုနှစ်။(စာမျက်နှာ–၈)။

*၂ ဆရာပေါ်၏ ပလိပ်ရောဂါကုထုံး။ ဗုဒ္ဓဘာသာသာသနာပြုအသင်းသတင်းစာပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၂၇၁–ခုနှစ်။ (စာမျက်နှာ–၁)။

*၃ လူထုဒေါ်အမာ၏ ကျွန်မတို့ယယ်ယယ်က။ လူထုစာအုပ်တိုက်၊ မန္တလေးမြို့။ ၁၉၉၄–ခုနှစ်။ (စာမျက်နှာ–၄၀)။

*၄ ဤအချက်နှင့်စပ်၍ သံချိုကိုင်ဦးကျော်လှလည်း 'မန်းဌာနီပြည်ပါလျှောချင်တော့' အစချီသောသံချိုကိုစပ်ဆိုဖူးပါသည်။ မောင်းထောင်ဦးကျော်လှ၏ သံချိုကဗျာပေါင်းချုပ်။ ပုံနှိပ်ရေးနှင့်စာအုပ်ထုတ်ဝေရေးကော်ပိုရေးရှင်း၊ ရန်ကုန်မြို့။ ၁၉၈၄–ခုနှစ်။ (စာမျက်နှာ–၆၃)။

အိမ်လွတ်များတွင်လည်း အိမ်ရှေ့၌မြင်လောက်သောနေရာများတွင် P-1, P-2 စသော စာလုံးများကို ဆေးနက်ဖြင့်ထင်ရှားစွာရေးထားခြင်းကိုတွေ့ရ၏။*၁ အဓိပ္ပာယ်မှာ– ပလိပ်ရောဂါဖြင့်သေသူတစ်ယောက်၊ သို့မဟုတ် နှစ်ယောက်၊ သို့မဟုတ် သုံးယောက်ရှိပြီဟုဆိုလိုခြင်းဖြစ်၏။ တစ်အိမ်တလေမှာမူ P-4 လေးယောက်အထိအမှတ်အသားမျိုးကိုပင်တွေ့ရလေသည်။ အချို့အိမ်ရှေ့များ၌မူ ပြာပုံကလေးတွင် မီးခိုးကလေးတလူလူပင်တွေ့ရတတ်သေး၏။ အဓိပ္ပာယ်မှာ– ၎င်းအိမ်၌ နာရီပိုင်းအတွင်းကပင် လူတစ်ယောက်ယောက် ပလိပ်ရောဂါနှင့်သေဆုံး၍ အိမ်ရှိအဝတ်အစားများကို မီးပုံရှို့ထားခြင်းပင်ဖြစ်လေသည်။ တိတ်ဆိတ်လျက်ရှိသောမြို့ကြီးတွင် အထက်ပါအခြင်းအရာမျိုးတို့ကိုတွေ့မြင်ရသည့်အခါ အဘယ်သူမှာ မတုန်လှုပ်မချောက်ချားဘဲရှိနိုင်ပါမည်နည်း။*၂–ဟုဖြစ်သည်။

မန္တလေးမြို့တွင် ပလိပ်ရောဂါကြီးဖြစ်စဉ်က အသက် ၆–နှစ်, ၇–နှစ်သားအရွယ်ဖြင့် သိမီလိုက်သူ စာရေးဆရာကြီးဒဂုန်နတ်ရှင်(အေဒီ ၁၈၉၈–၁၉၈၈)ကလည်း သူ၏ဘဝခရီးစဉ်စာအုပ်၌ ပလိပ်ရောဂါဖြစ်ပျက်ခဲ့ပုံတို့ကို အောက်ပါအတိုင်းမှတ်တမ်းတင်ရေးသားခဲ့ပါသည်။

'ပထမအစဦးစွာ ပလိပ်ရောဂါကြီးဖြစ်ခဲ့သည်ကို မမှတ်မိပါ။ ဒုတိယအကြိမ်မှစ၍ တစ်နှစ်တစ်ကြိမ် ဆောင်းပေါက်စရာသီမှစပြီး နွေဘက်အထိ ထိုရောဂါဖြစ်တတ်ပါသည်။ ရပ်ကွက်တိုင်းလိုပင် ထိုရောဂါဖြစ်ချိန်မှာသတိပြုလျက် အိမ်ရှေ့တွင်မီးဖိုခြင်း၊ သံပုံးတီး၍ သူရဲတစ္ဆေတို့ကိုတောထုတ်ခြင်းပြုပြီး အထုပ်အပိုးများပြင်ဆင်ကြရပါသည်။ အိမ်ကြွက်တွေကလည်းအလွန်များပါသည်။ အိမ်ကြွက် တစ်ကောင်, နှစ်ကောင် သေသည်ကိုတွေ့လျှင် ချက်ချင်းပင်အထုပ်အပိုးပြင်၍ အိမ်ပြောင်းကြရပါသည်။ တစ်ခါတစ်ရံ ရပ်ကွက်အတွင်း၌ တစ်စုံတစ်ဦး ပလိပ်ရောဂါဖြစ်နေလျှင် ထိုအိမ်ကို မြူနီစီပါယ်အမိန့်ဖြင့် အလံနီထိုးထားရသည်။ ထိုအလံနီထိုးကြောင်းသိရလျှင် ချက်ချင်းပင်အထုပ်အပိုးပြင်၍ ပြောင်းရွှေ့ပြေးကြရပါသည်။ ပလိပ်ရောဂါဖြစ်လာလျှင် သက်သာသူဟူ၍ မကြားဖူးသလောက်ပင်ဖြစ်ပါသည်။ တစ်အိမ်မှစ၍ဖြစ်လျှင် အခြားအိမ်များသို့ ထိုရောဂါလျင်မြန်စွာကူးပြီး လူအများပင်ပျက်စီးကြပါသည်။ တစ်နေ့အတွင်း အရပ်ထဲတွင် လူလေးငါးဦးမျှသေကြသည်ကိုတွေ့ရပါသည်။ ထိုအချိန်တွင် မြို့လုံးကျွတ်မျှအထိတ်တလန့်ဖြစ်ပြီး ရပ်ဝေးသို့ထွက်ပြေးကြပါသည်။ ကျွန်ုပ်အသက် ခြောက်နှစ်ကျော်, ခုနစ်နှစ်သားခန့်ရှိပြီဟုထင်သည်။ ကျွန်ုပ်တို့မိသားစုမှာ ဒုတိယမြောက်ပလိပ်ဘေးကိုပြေးကြရာ ရောဝတီမြစ်ရိုးရှိ စလေမြို့သို့ရောက်ခဲ့ပါသည်။ x▯x▯x▯ နောက်နှစ်များတွင် ဆောင်းဦး

*၁ 'ဆေးနက်'ဆိုရာတွင် သဘော်ာဆေး(ဆီဆေး)မျိုးမဟုတ်ဘဲ 'ကတ္တရာ'ဖြင့်ရေးထားခြင်းမျိုးဖြစ်သည်။

*၂ ရွှေဥဒေါင်း၏ တစ်သက်တာမှတ်တမ်းနှင့် အတွေးအခေါ်များ၊ ပထမတွဲ။ စာပေလောကစာပေ၊ ရန်ကုန်မြို့။ ၁၉၉၇–ခုနှစ်။ (စာမျက်နှာ–၁၀၄၊ ၁၀၅)။

ပေါက်လာလျှင် ပလိပ်ရောဂါဘေးကိုတွေး၍လန့်နေမိပါသည်။ ပလိပ်ရောဂါဘေးမှာ မန္တလေးမြို့မှမြို့နယ်များသို့ ပြန့်နှံ့သွားသဖြင့် 'ပလိပ်ပြေး'ဟုခေါ်သော ပြေးရှောင်ရသောကိစ္စမှာ ရှေးကလို နီးနီးနားနားမဟုတ်၊ ဝေးလံသောမြို့ရွာများသို့ပြေးကြရသဖြင့် ပို၍ပင်ဆင်းရဲပင်ပန်းကြရပါသည်။ အေးချမ်းသာယာလှသော မန္တလေးမြို့ကြီးသည် တစ်နှစ်တစ်ကြိမ်ပူဆွေးဒုက္ခရောက်ရသောကြောင့် မြို့သူမြို့သားတို့မှာ တရားသံဝေဂရပြီးလျှင် ရတနာသုံးပါးကိုခြွင်းချက်မရှိ ဖိ၍ယုံကြည်ကိုးကွယ်ကြပါတော့သည်။ ဒါန, သီလ, ဘာဝနာတရားများကို တစ်နှစ်ထက်တစ်နှစ် ပို၍ပွားများလာကြပြီးလျှင် ဘုရားတန်ဆောင်း သိမ်ကျောင်းစသော သာသနာ့အဆောက်အအုံကြီးများကို တိုး၍တည်ဆောက်လာကြပါသည်။ ဘုရားတကာ ကျောင်းတကာများ တစ်နေ့တခြား ပေါများလာပါသည်။ ဥပုသ်သီတင်းနေ့များတွင် အိမ်တိုင်းစေ့ သီလဆောက်တည်သူများကိုတွေ့ရပါသည်။ ထိုနေ့များတွင် သားကြီးငါးကြီးများ မပေါ်ရသဖြင့် ဈေးမှငါးသည်များပင် ဥပုသ်စောင့်ကြပါသည်' –စသည်ဖြင့်ဖြစ်ပါသည်။*၁

အင်္ဂလိပ်ဘာသာဖြင့်ပြုစုထားသောမှတ်တမ်းကြီးတစ်စောင်တွင်– 'မန္တလေးမြူနီစီပါယ်သည် လွန်ခဲ့သောလေးနှစ်ကစ၍ဖြစ်ပွားနေသော ပလိပ်ရောဂါကြီးကိုကာကွယ်ရသဖြင့် ငွေကြေးအလွန်ကြပ်တည်းနေပြီး ပြည်နယ်အစိုးရထံမှအထောက်အပံ့ပြန်လည်တောင်းခံနေရကြောင်းနှင့် ၁၉၀၈–ခုနှစ်နှင့် ၁၉၀၉–ခုနှစ်တို့တွင်ဖြစ်ပွားသော ပလိပ်ရောဂါကြောင့် မန္တလေးမြို့လူဦးရေ၏ သုံးပုံတစ်ပုံ အဝေးမြို့သို့ထွက်ပြေးတိမ်းရှောင်ကြရရာ စစ်ကိုင်းမြို့သို့ပင် လူဦးရေနှစ်သောင်းထွက်ပြေးကြကြောင်း' –ဖော်ပြထားသည်။*၂

မည်သို့ပင်ဆိုစေ၊ ပလိပ်ရောဂါကို ဆေးဆရာများ, ဆရာဝန်များက ထိရောက်စွာကုသမှုမပေးနိုင်သည့်အတွက် အချို့ကလည်း ဘီလူး ဖုတ် ပြိတ်, ကြက်ညှာမတြာစသော ဖမ်းနည်း, ကျွေးနည်း၊ သူရဿတီ, စန္ဒီ, ပရမီသွာ, မဟာပိန္နဲ, ၃၇–မင်းမှစ၍ ခေါ်နည်း, သွင်းနည်း, ကျွေးနည်းတို့ဖြင့်လည်း ကုသကြသည်။*၃

### ဘယဝိနာသကဒီပနီ

မော်လမြိုင်နှင့်အနီးတစ်ဝိုက်မြို့ရွာတို့တွင် ပလိပ်ရောဂါကြီးမှလွတ်မြောက်ချမ်းသာကြစေရန်အတွက်ရည်သန်ပြီး နတ်ပွဲများကိုပြုလုပ်ခဲ့ကြသည်။ ဤသို့နတ်ပွဲပြုလုပ်ကြသည်ကို အချို့သောပုဂ္ဂိုလ်တို့က လယ်တီဆရာတော်ကြီးထံတော်သို့ 'မိစ္ဆာအလုပ် လုပ်နေကြပြီ' ဟု အကြောင်းပြကာ လျှောက်ထားကြသည်။

---

*၁ ဒဂုန်နတ်ရှင်၏ ဘဝခရီးစဉ်။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၁၉၇၄–ခုနှစ်။ (စာမျက်နှာ ၃၅–၃၉)။

*၂ လူထုဒေါ်အမာ၏ ကျွန်မတို့ငယ်ငယ်တုန်းက။ ၁၉၉၄–ခုနှစ်။ (စာမျက်နှာ–၄၁)။ Arnold Wright (ed.)' Twentieth Century Impressions of Burma. Its History, People, Commerce, Industries and Resources. Lloyd's Greater Britain Publishing Company, Ltd., London, 1910. Page-371.

*၃ ဆရာပေါ်၏ ပလိပ်ကပ်ရောဂါကုထုံး။ ၁၂၇၁–ခုနှစ်။ (စာမျက်နှာ–၄၆)။

ထိုသောအခါ လယ်တီဆရာတော်ကြီးက ယခုပြုလုပ်သောနတ်ပွဲတို့သည် သရဏဂုံပျက်လောက်အောင် အလွတ်ပြုလုပ်နေကြသောနတ်ပွဲမျိုးမဟုတ်၊ မြို့ရွာအတွင်းကျရောက်လျက်ရှိသော ပလိပ်ကပ်ရောဂါကိုကျော်လွှားနိုင်ရန်နှင့် ယင်းကပ်ရောဂါအေးငြိမ်းစေရန်–စသည်ရည်ရွယ်ပြီးပြုလုပ်သောနတ်ပွဲမျိုးဖြစ်ကြောင်းသိတော်မူပြီးဖြစ်ပါသည်။ သို့ဖြစ်၍ လယ်တီဆရာတော်ကြီးက ဘယဝိနာသကဒီပနီအမည်ရှိသောကျမ်းစာကို အောက်ပါအတိုင်း အစချီရေးသားတော်မူခဲ့ပါသည်။

'မဂဒူးမင်း တည်ရင်းမဆွ မုတ္တမခရိုင် မော်လမြိုင်မြို့နှင့်တကွ ဂါမ, နိဂမ ဒေသအစုစု မြို့ရွာအရပ်ရပ်တို့၌ ပလိပ်ကပ်ရောဂါချမ်းသာလွတ်ငြိမ်းကြရန်အတွက်နှင့် နတ်ပွဲကြီးပြုလုပ်ကြသည်ကို ကျမ်းဂန်မသိ ဉာဏ်မရှိသောသူတို့က မိစ္ဆာဒိဋ္ဌိဖြစ်သည်ဟုပြောဆိုကြရာ၌ ကုသိုလ်ကံ, အကုသိုလ်ကံကိုလည်းကောင်း၊ ရတနာသုံးပါးကိုလည်းကောင်း ပစ်ပယ်၍ ထိုနတ်တို့သည် သီလဂုဏ်, သမာဓိဂုဏ်, ပညာဂုဏ်နှင့်ပြည့်စုံကုန်၏။ ၎င်းနတ်တို့ကိုပသပူဇော်ကုန်သည်ရှိသော် အပါယ်လေးပါးမှလွတ်၏။ သုဂတိ မဂ်, ဖိုလ်, နိဗ္ဗာန်သို့ရောက်နိုင်၏ဟု မှတ်ယူ၍ပြုလုပ်ကြသည်မဟုတ်။ ပယောဂနာပူးဝင်စွဲကပ်သောသူတို့သည် ပယောဂကိုနိုင်နင်းသော ရှမ်းဆရာ, ယောဆရာများကို ပူဇော်သက္ကာရပြု၍ ကိုးကွယ်ကြသကဲ့သို့ ကပ်ဥပဒ်ပျောက်ငြိမ်းရန် ပူဇော်ကြသောအရာဖြစ်ပေ၍ နတ်ပွဲကြီးပြုလုပ်မှုသည် မိစ္ဆာဒိဋ္ဌိမဖြစ်, လောကဓမ္မကျေလည်ကြသော ပညာရှိတို့အမှုသာဖြစ်သတည်း။ ထိုသို့ပြု၍ ကပ်ဥပဒ်ငြိမ်းဖူးသောအရာကိုပြဆိုပေအံ့။–ဟူ၍ဖြစ်ပါသည်။*၁

ဤ ဘယဝိနာသကဒီပနီ၌ မြို့စောင့်နတ်, ရွာစောင့်နတ်, မိရိုးဖလာနတ်တို့၏အကူအညီဖြင့် ကပ်ဥပဒ်ဘေးကြီးတို့ပျောက်ငြိမ်းရန်ဆောင်ရွက်ခဲ့ပုံတို့ကို ရတနသုတ်(ခုဒ္ဒကပါဌ၊၄၊)၊ ကလိင်္ဂဗောဓိဇာတ်(ဇာ၊၁၊၂၆၄၊ ဇာ၊ဋ္ဌ၊၄၊၂၂၈၊)၊ မဟာဝင်အဋ္ဌကထာလာ သင်္ဃဗောဓိမင်း(အေဒီ ၃၀၇–၃၀၉)ဝတ္ထု၊ ဥပ္ပါတသန္တိကျမ်းတို့ကို အကိုးအကားပြု၍ လယ်တီဆရာတော်ကြီးရှင်းလင်းရေးသားတော်မူခဲ့ပါသည်။*၂ ထို့ပြင် ယခုလို ဝိပတ္တိကာလအခါ၌ဖြစ်ပေါ်လာတတ်သော ပလိပ်စသော ကပ်ရောဂါအပါအဝင် အမျိုးမျိုးသောကပ်ဥပဒ်တို့အတွက် အသင့်ကြိုတင်ပြင်ဆင်ကာကွယ်ရမည့် အချက်တို့တွင်– (က) မိမိတစ်ကိုယ်ရေကြိုတင်ပြင်ဆင်ရပုံနှင့် (ခ) မြို့ရွာအတွင်းနေထိုင်ကြကုန်သောလူအများတို့စုပေါင်း၍ ကြိုတင်ပြင်ဆင်ရပုံ–ဟူသော ပြင်ဆင်ပုံပြင်ဆင်နည်း နှစ်နည်းကိုလည်း အောက်ပါအတိုင်းရေးသားပြဆိုခဲ့ပါသည်။

ယခုအခါ ဝိပတ္တိကာလဖြစ်ချေသည်။ သာသနာတော်လည်း အားနည်းလျက်ရှိချေသည်။ ဆုတ်ကပ်အခါဖြစ်ချေ၍ ရှေ့သို့ သည့်ထက်ဆိုးမည်လည်းမသိ။ ယခုအခါ ကပ်ဥပဒ်ကင်းလွတ်ကြသော ထိုထိုမြို့ရွာတို့ကလည်း မိမိတို့မြို့ရွာသို့ကပ်ဥပဒ်မလာနိုင်အောင် စောစောကတင်ကူး၍ အထူးကြောင့်ကြစိုက်ကြရမည့်အရေးကြီး

*၁ လယ်တီဆရာတော်ကြီး၏ ဘယဝိနာယကဒီပနီ။ သီရိနန္ဒာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၇–ခုနှစ်။ (စာမျက်နှာ–၁)။
*၂ ယင်း။ (စာမျက်နှာ–၉၊ ၁၀၊ ၁၁)။

ဖြစ်သည်။ ကပ်ဥပဒ်ရောက်မှ ကြောင့်ကြစိုက်ခဲ့သော် 'ဓားပြရောက်မှ ဓားကိုရှာ' သကဲ့သို့ ကိုးကွယ်ရာမရနိုင်ဘဲရှိတတ်သည်။

ကြောင့်ကြစိုက်နည်းကား-

(က) မိမိကိုယ်အတွက်နှင့် ကြောင့်ကြစိုက်ကြရန်၊

(ခ) မြို့ရွာအတွက်နှင့် ကြောင့်ကြစိုက်ကြရန်-

ဟူ၍ နှစ်လမ်းရှိသည်။

(က) မိမိကိုယ်အတွက်နှင့် ကြောင့်ကြစိုက်နည်းကား-

၁။ ငါးပါးသီလကို အမြဲနိစ္စ လုံခြုံစွာစောင့်ထိန်းရမည်။

၂။ အဘိဝါဒနသီလိဿ၊ နိစ္စံဝုမ္မာပစာယိနော။

စတ္တာရော ဓမ္မာ ဝမုန္တိ၊ အာယု ဝဏ္ဏော သုခံ ဗလံ။ (ဓမ္မပဒ၊ ဂါထာ-၁၀၉။)-ဟူသောပါဠိအရ အာယုဝမုနဆေးကြီးကိုအမြဲမှီဝဲရမည်။

အနက်ကား-

အဘိဝါဒနသီလိဿ-ရတနာသုံးပါးအား နေ့စဉ်မပျက် ဝတ်တက် ဝတ်ကပ် နိဗဒ်ပြည့်စုံ၍ ယုံကြည်စွာရှိခိုးလေ့ရှိထသော၊ နိစ္စံ-အမြဲ၊ ဝုမ္မာပစာယိနော-ဂုဏဝုမ္မိ ဝယဝုမ္မိ ဖြစ်သူတို့အား ကိုယ်ဖြင့်အရိုအသေ ပြုခြင်း၊ နှုတ်ဖြင့်အရိုအသေပြုခြင်း၊ စိတ်ဖြင့်အရိုအသေပြုခြင်းအလေ့ ရှိထသော၊ သတ္တဿ-သတ္တဝါအား၊ အာယု-အသက်ရှည်ခြင်းလည်း ကောင်း၊ ဝဏ္ဏော-အဆင်းမဆုတ်မယုတ်တဲ့ခြင်းလည်းကောင်း၊ သုခံ-ချမ်းသာမဆုတ်မယုတ်တဲ့ခြင်းလည်းကောင်း၊ ဗလံ-ကိုယ်အား ဉာဏ် အား မဆုတ်မယုတ်တဲ့ခြင်းလည်းကောင်း၊ စတ္တာရောဓမ္မာ-လေးပါးသော ကောင်းကျိုးတရားတို့သည်၊ ဝမုန္တိ-ပွားများတတ်ကုန်၏။ မြတ်စွာ ဘုရား၏အာယုဝမုနဆေးတော်ကြီးပေတည်း။

၃။ အန္တရာယ်ကင်းစေတတ်သည်ဟူ၍ လောကဩထင်ရှားသော ပရိတ်တော်၊ ဂုဏ်တော် ပါဠိတော်ဂါထာများကို နေ့စဉ်ဖွဲမြဲ၍ပုတီးစိတ်မှု၊ အခေါက် များစွာရွတ်မှုရှိစေရမည်။

၄။ လောကီအရာဩ အန္တရာယ်ကင်းစေတတ်သည်ဟူ၍ ဒိဋ္ဌသုတ ရှိနေ ကြသော ဂါထာ၊ မန္တရား၊ ဆေးဝါး၊ အင်းအိုင်များကိုလည်း ကိုယ်စောင့် လက်စောင့်ထားရှိစေရမည်။

(ခ) မြို့ရွာအတွက်နှင့် ကြောင့်ကြစိုက်ကြနည်း

မြို့ရွာရှိ ရဟန်းတော် သံဃာတော် မြို့ရွာလူကြီးအပေါင်းတို့သည် အညီအညွတ် ချိန်းချက်စည်းဝေး၍ မြို့ရွာတို့ဩ ကပ်ဥပဒ်အန္တရာယ် ကင်းရှင်းစေတတ်သော

အကြောင်းအရာ နည်းလမ်းထုံးတမ်းများကို တညီတညွတ်ပြုလုပ်ကြရန် တိုင်ပင်ဖွဲ့စည်းကြရမည်။ တညီတညာအားထုတ်ပါလျှင် တတ်နိုင်လောက်သောအမှုဖြစ်ခဲ့မူ ခိုသူကပ်သူမရှိ တညီတညာပြုလုပ် အားထုတ်ကြရမည်။ နည်းလမ်းထုံးတမ်းကို အမြွက်မျှ ပြဆိုအံ့။

၁။ မြို့ရွာရှိ ဘုရားဟောင်း, ကျောင်းဟောင်း, ကုသိုလ်ဟောင်းများကို တတ်အားသမျှ ပြုပြင်ကြရမည်။

၂။ မြို့ရွာရှိ နတ်ကွန်း, နတ်နန်းများကို ကောင်းမွန်စွာပြုပြင်ကြရမည်။

၃။ ရပ်စု, ကွက်စု ဝတ်တက်အသင်းများကို မြို့တွင်းရွာတွင်း အနှံ့အပြားရှိအောင် တည်ထောင်ဖွဲ့စည်း၍ ပရိတ်ကြီးပါဠိတော်ကြီး၊ ပဋ္ဌာန်းပါဠိတော်ကြီး၊ သတိပဋ္ဌာန်ပါဠိတော်ကြီးအမျိုးမျိုး အန္တရာယ်ကင်းဂါထာမေတ္တာပို့ကြီးများ ရသူကတိုင်၍ မရသူတို့က တညီတညာလိုက်၍ရွတ်ဆိုကြရမည်။ ရသူမရှိလျှင် စာအုပ်ကိုကိုင်၍ရွတ်ရမည်။

၄။ ဝါဝင်ဝါကျွတ် သင်္ကြန်အခါကြီးသမယကြီးတို့၌ မြို့စောင့်နတ်, ရွာစောင့်နတ်, အိမ်စောင့်နတ်, မိရိုးဖလာနတ်တို့ကို ထမင်းဘောဇဉ် ရေစင်ရေချမ်း ပန်းပေါက်ပေါက် ဆီမီးတို့ဖြင့် ပူဇော်ကန်တော့ရိုးပြုကြရမည်။

၅။ ကပ်ဥပဒ်အန္တရာယ်ရှိခဲ့သော် မြို့ရွာညီညာ၍ ရွတ်ဖတ်ကြရမည်။ (ပြဆိုခဲ့ပြီးသောပါဠိတော်ကြီးများကို အိမ်တိုင်း၌အသီးသီးရှိစေကြရမည်။)

၆။ အန္တရာယ်ရှိလာခဲ့သော် မြို့ရွာရှိယောကျ်ားတို့က တစ်ကျိပ်အသင်း၊ နှစ်ကျိပ်အသင်း၊ သုံးကျိပ်အသင်းဖွဲ့၍ လမ်းကြီးလမ်းသေးလျှောက်သွား၍ တစ်မြို့လုံးတစ်ရွာလုံး အုန်းအုန်းသူအောင်ဖတ်ရွတ်ကြရမည်။နေဝင်သည့်နောက်၌ မိမိတို့အိမ်မှာလည်း ထိုပါဠိတော်ကြီးများကို အသံကျယ်စွာထုတ်၍ ကပ်ဥပဒ်ပျောက်ငြိမ်းသည့်တိုင်အောင် နေ့စဉ်အမြဲဖတ်ရွတ်ကြရမည်။

ပြင်သစ်နိုင်ငံ၌ ပြင်သစ်လူမျိုးမှန်လျှင် စစ်အရေးအရာ လက်နက်ကိရိယာတို့၌ မလိမ္မာသောသူဟူ၍မရှိ။ စစ်အရေးကိစ္စရှိခဲ့လျှင် စစ်သားကိစ္စ စစ်ဗိုလ်ကိစ္စနှင့် ခဏချင်းထွက်နိုင်ကြသောသူချည်းဖြစ်အောင် တစ်နိုင်ငံလုံး အားထုတ်၍ထားကြရသည်။ အဘယ်ကြောင့်နည်းဆိုသော် အလွန်ရန်များသောခေတ်ကာလဖြစ်သောကြောင့်တည်း။

ယခု ငါတို့နိုင်ငံမှာ မြို့ရွာကပ်ဥပဒ်အန္တရာယ်ကင်းရှင်းမှု၌လည်း ပြင်သစ်နည်းတူ ပြုလုပ်၍ထားကြမှ သင့်လျော်မည်။ ဂျပန်နိုင်ငံမှာ သရော်ပျက်ချော်ပြောဆိုပြုလုပ်တတ်သောအလေ့ကို ယခုအခါ ကြပ်တည်းစွာဆုံးမကြသည်ဟု တိုင်းသတင်းစာများမှာတွေ့မြင်ရသည်။ငါတို့နိုင်ငံမှာလည်း ထိုအမှုမျိုးကို အထူးသတိပြုကြဖို့ကောင်း

လှ၏။ အရေးအရာကိုမမြင်တတ်သော လူရှင်လူပုပ်တို့၏အလေ့ဖြစ်သတည်း။’–ဟူ၍ဖြစ်ပါသည်။*[၁]

**ရောဂန္တ ရဒီပနီ**

ပလိပ်ကပ်ရောဂါဆန်းဖြစ်ပေါ်လာချိန်တွင် လယ်တီဆရာတော်ကြီး၏ ဟိတစရိယာခေါ် အများသတ္တဝါတို့၏အကျိုးအတွက် ကျင့်ကြံဆောင်ရွက်ပုံတို့သည်လည်း ထင်ရှားဖြစ်ပေါ်လာလေသည်။ ဤသို့ ပလိပ်ကပ်ရောဂါကြောင့် သတ္တဝါများဆင်းရဲရပြီဟူသော သတင်းစကားကြားသိရလျှင် လယ်တီဆရာတော်ကြီးသည် မိမိ၏ဝါဆိုကျောင်းနှင့်မနီးမဝေး၌ သီတင်းသုံးနေတော်မူသော ဝဇီရာရာမဆရာတော်ဘုရားကြီးစံရာ ရတနာဘုံမြင့်ကျောင်းသို့ ကြွသွားတော်မူပါသည်။

ရတနာဘုံမြင့်ကျောင်းသည် ကျိုက်သံလန်ဘုရား၏အခြေ၌တည်ရှိပြီး ကျောင်းအမကြီးဒေါ်ရွှေပွင့် သက္ကရာဇ်–၁၂၄၈(အေဒီ–၁၈၈၆)ခုနှစ်မတိုင်မီက ဆောက်လုပ်ပြီး ဝဇီရာရာမဆရာတော်ကြီး အရှင်ပညာသိရီအားလှူဒါန်းခဲ့သောကျောင်းဖြစ်သည်။ ဤကျောင်းကြီး၏အတွင်းပိုင်းအဆင်အယင်သည် မော်လမြိုင်ဒေသ၏သမားရိုးကျပုံစံမဟုတ်ဘဲ ထီးဟန်နန်းဟန်နှင့် အမျိုးသားယဉ်ကျေးမှုအနုပညာများကို ထူးထူးခြားခြားပေါ်လွင်အောင် ဆောက်လုပ်ထားသောကျောင်းကြီးဖြစ်သည်။ ရတနာဘုံမြင့်ကျောင်း၏တံခါးပေါက်(၁၈)ပေါက်၊ ပြတင်းပေါက်(၄၀)၊ လှေကားသုံးစင်း–စသည်ပါရှိသည်။*[၂] ဝဇီရာရာမဆရာတော်ကြီး*[၃] ဆိုသည်မှာလည်း မင်းတုန်းမင်းကြီး၏ မိဖုရား စိန်တုံးမိဖုရား၏အကိုးကွယ်ခံ ‘ပညာဘိသိရီသဒ္ဓမ္မကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်နှင့် ပညာဘိသိရီသဒ္ဓမ္မမဟာဓမ္မရာဇဂုရုတံဆိပ်တော်’–ဟု တံဆိပ်တော်နှစ်ထပ်ရဆရာတော်ကြီးဖြစ်သည်။ ဇာတိမှာ လယ်တီဆရာတော်ကြီးဇာတိရပ်ရွာနှင့်တစ်နယ်တည်း ဒီပဲယင်းမြို့ ချမ်းသာရွာ သွေးသောက်အုပ်စုအပါအဝင် ကုန်းသာရွာဖြစ်သည်။ မန္တလေးမြို့၌နေစဉ်က စိန်တုံးမိဖုရားကြီးလှူဒါန်းအပ်သော ဝဇီရာရာမစိန်တုံးကျောင်းတိုက်ကို လွှဲအပ်ခြင်းခံ၍ ဝဇီရာရာမဆရာတော်–ဟူ၍တွင်ခြင်းဖြစ်သည်။*[၄] သက်တော်ရွယ်တော်မှာ လယ်တီဆရာတော်ကြီးထက် သက်တော်(၁၆)နှစ်ကြီးရင့်တော်မူပါသည်။*[၅] သို့ပါ၍လယ်တီဆရာတော်ကြီးက မိမိထက်သက်တော်

---

*၁ လယ်တီဆရာတော်ကြီး၏ ဘယဝိနာသကဒီပနီ။ ၁၉၉၇–ခုနှစ်။ (စာမျက်နှာ ၁၃–၁၇)။

*၂ အုံကျော်၏ ရတနာဘုံမြင့်ကျောင်းတိုက်နှစ်တစ်ရာခရီး။ သိဒ္ဓိမြိုင်ပုံနှိပ်တိုက်၊ရန်ကုန်မြို့။၁၉၈၆–ခုနှစ်။(စာမျက်နှာ–၂၉)။

*၃ ဝဇီရာရာမဆရာတော်ကြီးသည် သက္ကရာဇ်–၁၁၉၂(အေဒီ–၁၈၃၀)ခုနှစ်ဖွား၍၊ သင်္ဂဇာဆရာတော်ကြီးအရှင်အဂ္ဂဓမ္မာ လက်ဘရနှင့် သီးလုံးဆရာတော်ကြီးအရှင်စန္ဒိမာတို့၏ တပည့်ဖြစ်သည်။ သီပေါမင်းပါတော်မူချိန်၌ မော်လမြိုင်မြို့သို့ ရောက်နေပြီးဖြစ်သည်။

*၄ အချင်ကေလာသ၏ စစ်ကိုင်းသာသနာဝင်။ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ–၁၉၀)။ ထိုဝဇီရာရာမကျောင်းကြီးသည် မန္တလေးမြို့ အရှေ့ပြင်၌ရှိသည်။

*၅ ဝဇီရာရာမဆရာတော်ကြီးမှာ သက္ကရာဇ် ၁၁၉၂–ခုနှစ်၊ တော်သလင်းလဆန်း ၂–ရက် (အေဒီ–၁၉၊ ဩဂုတ်လ၊ ၁၈၃၀–ပြည့်နှစ်)ဖွားဖြစ်သည်။ ယင်း။ (စာမျက်နှာ–၁၉၀)။



လယ်တီဆရာတော်ကြီး ဝါကပ်သီတင်းသုံးရာ မော်လမြိုင်မြို့ကျိုက်သလွန်တောင်ရိုးရှိ အလံတိုင်ဘုရား



ရတနာဘုံမြင့်ကျောင်း ဆရာတော်ကြီး

မော်လမြိုင်မြို့ရတနာဘုံမြင့်
ဆရာတော်

မုံရွာမြို့လယ်တီဆရာတော်ဘုရား

ကြီး၏ ရှစ်ပါးမှိုးနှောတိုင်ပင်၍ စီရင်
တော်မူသော၊ မူရင်းထွင်
နော်ထပ်အဋ္ဌကထာရာယ်
ကင်းစိမ်ချက်များကို ထည့်သွင်း၍
စီရင်အပ်သော

ဗောဓိပက္ခိယဒီပနီကျမ်း

——s——

စာအုပ်ရှင်၊ မန္တလေးမြို့၊
ရတနာပုံမြန်မာစာအုပ်တိုက်ဆိုင်
မင်းကတော်ကြီး
သား မောင်ဘထူး

မန္တလေးမြို့၊ မြဝတီစာပုံနှိပ်တိုက်၊

ဒာဘိုး၄၄-၄၁၊

ရှယ်တော်ကြီးရင့်၍ အတွေ့အကြုံဗဟုသုတများပြားလှစွာသော ရတနာဘုံမြင့်ကျောင်း ဝဇီရာရာမ ဆရာတော်ကြီးထံချဉ်းကပ်၍ ထိုပလိပ်ကပ်ရောဂါပျက်သုဉ်းရေးအတွက် အားကိုးအားထားပြုကာ တိုင်ပင်တော်မူခဲ့ပါသည်။ ဆရာတော်ကြီးနှစ်ပါးတို့ တိုင်ပင်တော်မူပြီးနောက် ပလိပ်ရောဂါ, ဝမ်းရောဂါတို့မှ လျှောကွာပျောက်ငြိမ်းစေတတ်သော ပရိတ်တော်ဂါထာစသည်တို့ကိုထည့်သွင်းလျက် အခန်း(၁၃)ခန်းပါရှိသော ရောဂန္တရဒီပနီကျမ်းကို လယ်တီဆရာတော်ကြီးကတာဝန်ခံလျက် အလံတိုင်ဘုရားအနီး ဝါဆိုစကြံကျောင်းမှာ စတင်ရေးသားတော်မူပါသည်။

ရောဂန္တရဒီပနီကျမ်း၏အစတွင် ကျမ်းပြုပုဂ္ဂိုလ်ဖြစ်သော လယ်တီဆရာတော်ကြီးက 'မိမိ၏ ရောဂန္တရဒီပနီကျမ်းသည် သာမန်ဗဟုသုတအလို့ငှာဖတ်ရှုရမည့်ကျမ်းမျိုးမဟုတ်ဘဲ ကျရောက်ဆဲဖြစ်သောကပ်ရောဂါတို့ကို ငြိမ်းစဲအောင်ပြုလုပ်နိုင်ရန် လမ်းပြသည့်ကျမ်းစာမျိုးဖြစ်၍ ကြပ်ကြပ်ကြီးဂရုစိုက်၍ ကြည့်ရှုပါ'ဟု ရှေးဦးစကားဖြင့် ချည်နှောင်ထားပါသည်။

ဤ ရောဂန္တရဒီပနီကျမ်း၌ပါဝင်သော အခန်း(၁၃)ခန်းတို့မှာ–

၁။ ပဌမခန်း။ ။မြို့ရွာ၌ ကပ်ဥပဒ်ဆိုက်ရောက်လိမ့်မည်ကို တင်ကြို၍သိနိုင်သော နိမိတ်(၂၇)မျိုးတို့ကိုဖော်ပြခြင်း။ *၁

၂။ ဒုတိယခန်း။ ။လောက၌ တန္တေမှင်စာခေါ်ကြသော နတ်ယုတ်နတ်ညံ့များနှင့် အစိမ်း, သားရဲ,သားဘက်,မြေဘီလူး,ရေဘီလူးတို့က လူတို့အားဒုက္ခပေးတတ်ပုံ၊ ကာကွယ်နိုင်ပုံအကြောင်းများကိုဖော်ပြခြင်း။ *၂

၃။ တတိယခန်း။ ။ဘီလူးသဘက်တို့သည် လူကိုနှိပ်စက်ရန်တန်ခိုးရှိကြသော်လည်း ပရိတ်, မန္တန်,ဆေးဝါး,အင်းအိုင်တို့၏ အရှိန်အဝါတို့ကို မခုခံနိုင်ပုံ၊ ပြဒါးဓာတ်,သံဓာတ်, စိန်ဓာတ်, ဆေးဒန်းဓာတ်, ဟင်းရိုင်းဓာတ်တို့၏အခိုးအရှိန်ကို အလွန်ကြောက်ရွံ့ကြကြောင်း–စသည်၊ ရှေးအခါက မြို့စောင့်,ရွာစောင့်–စသောနတ်တို့ကိုပူဇော်၍ ကာကွယ်ကြပုံ၊ သူငယ်တို့၏လည်ပင်း,လက်ခြေတို့၌ လည်ဖွဲ့,လက်ဖွဲ့,ခြေဖွဲ့ပြုလုပ်၍ဆွဲကာ ကာကွယ်ပုံများ၊ ယခုအခါ ပရိတ်–စသည်ဖြင့်ကာကွယ်ကြပုံများ၊ သီဟိုဠ်ကျွန်းများမှာ ယခုထက်တိုင် အန္တရာယ်ကင်းပရိတ်ရွတ်ပုံများကိုဖော်ပြခြင်း။ *၃

၄။ စတုတ္ထခန်း။ ။နိုင်ငံမြို့ရွာတို့၌ကျရောက်ပေါ်ပေါက်၍နေသော ကပ်ရောဂါမျိုးသည် နိုင်ငံမြို့ရွာအစိုးရမင်းများ၏ မြို့ရွာကိုကာရံစောင့်ရှောက်၍ အမိန့်တော်ပြန်တမ်းပြန်စေခြင်း–စသည်အစွမ်းဖြင့် ပျောက်ငြိမ်းတတ်ကြောင်း–စသည်များကိုဖော်ပြခြင်း။ *၄

---

*၁ လယ်တီဆရာတော်ကြီး၏ ရောဂန္တရဒီပနီကျမ်း။ ၁၉၁၅–ခုနှစ်။ (စာမျက်နှာ ၁–၄)။

*၂ ယင်း။ (စာမျက်နှာ ၄–၁၃)။

*၃ ယင်း။ (စာမျက်နှာ ၁၄–၂၀)။

*၄ ယင်း။ (စာမျက်နှာ ၂၀–၂၃)။

၅။ ပဥ္စမခန်း။ ။နိုင်ငံမြို့ရွာတို့၌ကျရောက်ပေါ်ပေါက်လျက်ရှိနေသော ကပ်ရောဂါမျိုးသည် ဆရာဝန်များ၏အစွမ်းဖြင့်လည်း ပျောက်ငြိမ်းတတ်ကြောင်း၊ ပလိပ်ရောဂါသည် နှစ်ပေါင်း နှစ်ထောင်ကျော်လောက်ဆီကပင် ရောမနိုင်ငံမှအစပြု၍ ဥရောပတိုက်တွင်ဖြစ်ခဲ့ဖူး သည်ကား ကြာရှည်လှလေပြီ။ စောစောကတင်ကူး၍ တစ်ရပ်တစ်ကျေး ထွက်ပြေး တိမ်းရှောင်မှု၊ အိမ်ရာတိုက်တာများကိုသန့်ရှင်းစေမှုတို့မှတပါး ယခုထက်တိုင် ဆေးမတွေ့ နိုင်ကုန်ကြသေး–စသည်ဖြင့်ဖော်ပြထားတော်မူခြင်း။*၁

၆။ ဆဋ္ဌမခန်း။ ။နိုင်ငံမြို့ရွာတို့၌ ကျရောက်ပေါ်ပေါက်လျက်ရှိသော ကပ်ရောဂါမျိုးများ သည် မြို့သူကြီး, ရွာသူကြီး, ကော်မတီလူကြီး, မြူနီစီပါယ်လူကြီး, သမာဓိမြို့ဝန် မင်း, အရပ်အုပ်, အကွက်အုပ်, အရပ်ခေါင်း, ဆယ်အိမ်ခေါင်း, အရပ်လူကြီးလူကောင်း များတို့၏အစွမ်းဖြင့်လည်း ကင်းလွတ်တတ်ကြောင်းနှင့် ဤသို့ကာကွယ်ကြရာ၌ မြို့ရွာ အတွင်း တံတားအို, ကျောင်းအို–စသည်အအိုအဟောင်းများပြုပြင်ရန်၊ မြို့တွင်းမြို့ပြင် ရွာတွင်းရွာပြင်ရှိ နတ်စင် နတ်ကွန်း နတ်နန်းတို့ကိုပြုပြင်၊ အရိုးအစဉ် ပူဇော်ပသ ကြကြောင်း–ဖော်ပြခြင်း။*၂

၇။ သတ္တမခန်း။ ။ထိုထိုမြို့ရွာတို့၌ ကျရောက်ဖြစ်ပေါ်လျက်ရှိနေသော ကပ်ရောဂါများ သည် မြို့ရွာရှိလူသန်ကာလသားတို့၏အစွမ်းဖြင့်လည်း ပျောက်ငြိမ်းတတ်ကြောင်း နှင့် တိဘက်နိုင်ငံ၌ ကပ်ရောဂါကို လူအများစုပေါင်း၍ ကာကွယ်ခဲ့ကြောင်းတို့ကို ဖော်ပြခြင်း။*၃

၈။ အဋ္ဌမခန်း။ ။ထိုထိုမြို့ရွာတို့၌ ကျရောက်ဖြစ်ပေါ်လျက်ရှိသော ကပ်ရောဂါများသည် ထိုထိုမြို့ရွာရှိ ရဟန်းတော်သံဃာတော် ဆရာတော်တို့၏အစွမ်းဖြင့်လည်း ပျောက် ငြိမ်းတတ်ကြောင်း–ဖော်ပြခြင်း။*၄

၉။ နဝမခန်း။ ။မြို့ရွာတို့၌ မကောင်းသော ခွေးအူနိမိတ်, ကျီးပြိုနိမိတ်, ငှက်ဆိုးမြည် နိမိတ်–စသည့်နိမိတ်များပေါ်ပေါက်လာခဲ့သော် ထိုအရပ်သူအရပ်သားတို့က အမှတ်မဲ့ မနေကြဘဲ လက်နက်အမျိုးမျိုးရရာဖြင့် (ခွေးအူသံစသည်ပျောက်အောင်) ကွယ်ကာ ပုံများ။*၅

၁၀။ ဒသမခန်း။ ။ကပ်ရောဂါ ဆိုက်ရောက်ဖြစ်ပွားသောနေရာ၌ နေရာကျပြုလုပ်ကြ သဖြင့် နေ့ချင်းညချင်းပျောက်ငြိမ်းဖူးသော နည်းလမ်းအထောက်အထားများ သက္ကရာဇ်

---

*၁ လယ်တီဆရာတော်ကြီး၏ ရောဂန္တရဒီပနီကျမ်း။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ ၂၃–၂၇)။

*၂ ယင်း။ (စာမျက်နှာ ၂၇–၃၃)။

*၃ ယင်း။ (စာမျက်နှာ ၃၃–၄၀)။

*၄ ယင်း။ (စာမျက်နှာ ၄၀–၄၃)။

*၅ ယင်း။ (စာမျက်နှာ ၄၄–၄၈)။

၁၂၆၄ (အေဒီ–၁၉၀၂) ခုနှစ်တွင် ရောဝတီမြစ်ညာ ကသာမြို့မှာ ကပ်ဥပဒ်ကြီးစွာဖြစ်နေရာ ကျမ်းတတ်အကျော်(မန်လည်ဆရာတော်ကြီး)သည် မြို့စောင့်နတ်တို့အားတိုင်တန်းစာစီရင်၍ နတ်စင်တစ်ခုမှာဖတ်စေရာ နေ့ချင်းညချင်းပျောက်ငြိမ်းဖူးကြောင်းနှင့် ၁၂၇၀ (အေဒီ–၁၉၀၈)ခုနှစ်တွင် ကျိုက်ထို၌၊ တောင်ငူမြို့၌၊ မိတ္ထီလာမြို့၌ဥပဒ်ကျရောက်ရာ ကာကွယ်ကြပုံအခြင်းအရာတို့ကိုဖော်ပြခြင်း။*၁

၁၁။ ကောဒသမခန်း။ ။ကပ်ဥပဒ်အန္တရာယ်ကိုကာကွယ်ရန်ဂါထာကြီးများ၊ နှစ်ကိုပ်ရှစ်ဆူစက်ပရိတ်ဂါထာများ၊ ဘုရားခုနစ်ဆူစက်ဂါထာကြီး၊ သရဏဂုံအင်း၊ ဗောဓိပက္ခိယအင်း၊အဋ္ဌာရသအင်း၊ ဇာတ်ကြီး(၁၀)ဘွဲ့အင်းများနှင့် ဆေးအမျိုးမျိုးတို့ကိုဖော်ပြခြင်း။*၂

၁၂။ ဒွါဒသမခန်း။ ။အင်္ဂုတ္တိုရ်ပါဠိတော်မှာ မြတ်စွာဘုရားဟောကြားတော်မူသော ကပ်(၃)ပါးအကြောင်း၊ ဘာသာခြားတို့၌လည်း နတ်ဆိုးနတ်ဝါးတို့ကိုနိုင်နင်းသောအကြောင်းအရာများပါကြောင်း–ဖော်ပြခြင်း။*၃

၁၃။ အမိန့်တော်ပြန်ခန်း။ ။ဤအခန်းတွင် လယ်တီဆရာတော်ကြီး၏မိန့်ကြားချက် အမိန့်တော်ပြန်တမ်းကိုဖော်ပြခြင်း*၄–တို့ပင်ဖြစ်သည်။

ဤသို့ဖြင့်ပင် လယ်တီဆရာတော်ကြီးသည် ပလိပ်ကပ်ရောဂါပျောက်ကင်းကြောင်း ရောဂန္တရဒီပနီကျမ်းကို ၁၂၇၀–ပြည့်နှစ်၊ တော်သလင်းလဆုတ် ၁–ရက် (အေဒီ –၁၀၊ စက်တင်ဘာလ၊ ၁၉၀၈)ခုနှစ်တွင် မော်လမြိုင်မြို့ ကျိုက်သံလန်တောင်ထိပ် အလံတိုင်ဘုရားအနီးရှိ ဝါဆိုကျောင်း၌ ဝါကပ်ဆိုနေတော်မူစဉ် ရေးသား၍ပြီးစီးခဲ့ပါသည်။ ထိုစာအုပ်ရေးသားပြီးလျှင် မော်လမြိုင်မြို့ ဒိုင်းဝန်ကွင်းရပ်၊ ဒိုင်းဝန်ကွင်းဈေးလမ်းရှိ မင်္ဂလာအောင်ညွှန့်ပုံနှိပ်တိုက်မှာပင် အိတ်ဆောင်စာအုပ်အရွယ် စာအုပ်အသေးကိုရိုက်နှိပ်စေပြီး မြို့ရွာ၌ပြန့်နှံ့အောင် ဝေငှကမ်းလှမ်းခဲ့ကြပါသည်။

**'ပထရမ' တံဆိပ်တော်**

လယ်တီဆရာတော်ကြီးသည် ရောဂန္တရဒီပနီကျမ်းကိုရေးသားနေတော်မူစဉ်၌ အလွန်ထူးခြားသော တစ်ကြောင်းဆွဲအန္တရာယ်ကင်း 'ပထရမ'အက္ခရာတံဆိပ်ကို ပလိပ်ရောဂါကာကွယ်ရာ၌အသုံးပြုရန် ဆရာရသေ့တစ်ဦးက ညအခါ တိတ်တဆိတ်လာရောက်၍ ကပ်လှူခဲ့ပါသည်။ ဤသို့ ပထရမတံဆိပ်ထူးကို လယ်တီဆရာတော်ကြီးလက်ခံရရှိတော်မူပုံတို့ကိုအကြောင်းနှင့်စပ်၍ လယ်တီဦးဝဏ္ဏိတကိုယ်တော်က အောက်ပါအတိုင်းမှတ်တမ်းတင်ရေးသားထားပါသည်။

ထိုင်းနယ်စပ်တွင်နေထိုင်သော ရသေ့ဆရာသည် ဆရာတော်ဘုရားကြီးခြေတော်ရင်းသို့ အဖူးအမြော်အကန်တော့ရောက်ရှိလာ၏။ ရသေ့ဆရာသည်

---

*၁ လယ်တီဆရာတော်ကြီး၏ ရောဂန္တရဒီပနီကျမ်း။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ ၄၈–၅၂)။

*၂ ယင်း။ (စာမျက်နှာ ၅၃–၆၆)။

*၃ ယင်း။ (စာမျက်နှာ ၆၆–၇၄)။

*၄ ယင်း။ (စာမျက်နှာ ၇၄–၇၉)။



လယ်တီဆရာတော်ဘုရားကြီးသုံးစွဲတော်မူခဲ့သော ပထရမတစ်ကြောင်းဆွဲအက္ခရာတံဆိပ်တော်



လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးပြုပြင်၍အသုံးပြုခဲ့သော ပထရမတစ်ကြောင်းဆွဲအက္ခရာပါ အဌရာယ်ကင်းတံဆိပ်တော်

ဆရာတော်ဘုရားကြီးအား ဤသို့လျှောက်ထား၏။ ‘ဆရာတော်ဘုရားကြီးသည် ပလိပ်ကပ်ရောဂါကိုကာကွယ်ရန် ရောဂန္တ ရဒီပနီကျမ်းစာအုပ်စီရင်တော်မူသည်ဟု ကြားသိရပါသည်။ ဆရာတော်ဘုရားကြီးအား အက္ခရာ(စ–မ)တံဆိပ်လှူဒါန်းပါရစေ’ ဟုလျှောက်၏။

ဆရာတော်ဘုရားကြီးသည် ဆရာရသေ့၏အက္ခရာ(စ–မ)တံဆိပ်၏အကျိုးသွားနှင့် အကြောင်းအရာ စုံလင်စွာပြောပြစေလိုကြောင်းအမိန့်တော်ရှိရာ၊ ရသေ့ဆရာက– ‘တစ်နေ့သ၌ တပည့်တော်ဆွမ်းခံနေသောတောရွာကလေးမှာ ပလိပ်ကပ်ရောဂါဖြစ်ပါသည်။ ညဉ့်အခါ အိပ်မက်မြင်မက်သည်မှာ တပည့်တော်၏ကျောင်းသခ်မ်းသို့ ဝတ်ဖြူစင်ကြယ်နှင့် လူဆယ်ယောက်ခန့်တက်လာပါသည်။ အကြီးအမှူးပြုလုပ်သူက တပည့်တော်အားပြောဆိုသည်မှာ ဆရာရသေ့၏အပေါ်၌ ကျေးဇူးများနေသောရွာငယ်ကလေး၌ ပလိပ်ကပ်ရောဂါဖြစ်နေသည်ကို အဘယ့်ကြောင့် လျစ်လျူရှုနေသနည်း’ ဟုပြောဆိုပါသည်။

ထိုအခါ ‘တပည့်တော်က ထိုအန္တရာယ်ကို ဆရာရသေ့ပျောက်ငြိမ်းအောင် မတတ်နိုင်ပါ’ ဟုပြန်ပြောပါသည်။ ဒါဖြင့် ထိုအန္တရာယ်ကိုပျောက်ငြိမ်းရန် နည်းကောင်းပေးပါမည်၊ ခဲတံနှင့်စက္ကူပေးပါဟုတောင်းရာ၊ တပည့်တော်က– တောထဲ၌ ခဲတံ၊ စက္ကူ ဘယ်မှာရှိမလဲဟုပြောပါသည်။ ထိုအခါ အကြီးအမှူးပြုလုပ်သူက နောက်ပါလူတစ်ယောက်အား သစ်ရွက်တစ်ခုကိုအခူးခိုင်းလိုက်ပါသည်။ ကျောင်း၏လှေခါးရင်းတွင်ရှိသော ငှက်ပျောရွက်တစ်ခုကို ခူးယူခဲ့ပါသည်။ ၎င်းငှက်ပျောရွက်ပေါ်တွင် တစ်ကြောင်းဆွဲအက္ခရာ(စ–မ)တံဆိပ်ကိုရေးဆွဲပြီး– အဲဒီအက္ခရာတံဆိပ်သည် ပလိပ်ကပ်ရောဂါကိုပျောက်ငြိမ်းစေတတ်သည်ဟုပြောပြီး ပျောက်ကွယ်သွားကြပါသည်။

နံနက်မိုးလင်းသောအခါ အနားတွင်ချထားသော ငှက်ပျောရွက်ကိုကြည့်ရှုရာ အက္ခရာ(စ–မ)တံဆိပ်ကိုတွေ့မြင်ရ၍ ထန်းရွက်၊ ပေရွက်၊ စလူရွက်တို့တွင်ရေးပြီး ရေတွင်စိမ်၍တိုက်ခြင်း၊ ပက်ဖျန်းခြင်း၊ လည်ပင်း၌ဆွဲထားခြင်း–စသည်တို့ကို ပြုလုပ်ရာ၊ နေ့ချင်းညချင်း ပျောက်ကင်းသွားပါကြောင်း၊ သို့ပါ၍ ဆရာတော်ဘုရားကြီးသည် တစ်နိုင်ငံလုံး၏ကျေးဇူးရှင်ကြီးဖြစ်တော်မူသည့်အတိုင်း ဤအက္ခရာ(စ–မ)တံဆိပ်ကို အသုံးပြုတော်မူပါဘုရား’–ဟု လျှောက်ကြားသွားပါသည်။*၁

လယ်တီဆရာတော်ကြီးသည် ၎င်းအက္ခရာ(စ–မ)တံဆိပ်ကို မီးခြစ်စည် သွပ်ပြားတွင်ရေး၍ လက်ဖွဲ့ပြုလုပ်ပြီးလျှင် ဘုရားရှေ့တော်တွင် ဂုဏ်တော်ကိုးပါးနှင့် (၂၄)ပစ္စည်းတို့ကို ရွတ်ဖတ်မန်းမှုတ်ပြီးလျှင် မိမိထံသို့လာ၍ဖြစ်စေ၊ တရားပွဲများ၌ဖြစ်စေ နွားသား၊ ကျွဲသားရှောင်ရန် ကတိထားသူတို့ကို ဦးစွာပထမ တစ်လုံးစီချီးမြှင့်တော်မူခဲ့ပါသည်။

---

*၁ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ ၈၆–၈၇)။

ရန်ကုန်မြို့သို့

လယ်တီဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၇၀–ပြည့်နှစ်၊ နတ်တော်လ (အေဒီ ၁၉၀၈–ခုနှစ်၊ နိုဝင်ဘာလ)တွင် ရန်ကုန်မြို့ ပုဇွန်တောင်ရပ် ညောင်ကုန်းကျောင်းတိုက်၌ သီတင်းသုံးနေတော်မူစဉ် ရန်ကုန်မြို့၊ ပုဇွန်တောင်ရပ် တရားမဏ္ဍပ်ကြီးတွင် 'ပဓာနစကားကြီး သုံးခွန်းတရားတော်' ကို အကျယ်တဝင့်ဟောကြားတော်မူခဲ့ပါသည်။

ထိုစဉ်က လယ်တီဆရာတော်ကြီးဟောကြားတော်မူသော ပဓာနစကားကြီးသုံးခွန်းတို့မှာ–

၁။ 'သစ်ပင်, ချုံ, မြက်, သရက်, ပိန္နဲ, ကောက်ပဲ, ပြောင်း, နှမ်း, ဘူး, ခရမ်း–စသည်တို့မှာ မျိုးစေ့ရှိပါမှဖြစ်နိုင်ကြသည်'–ဟူသော ပထမပဓာနစကား။*၁

၂။ 'လူတို့၏ပစ္စည်းဥစ္စာ ချမ်းသာစီးပွားဖြစ်မှုတို့မှာ ရှေးကုသိုလ်ကံရှိပါမှဖြစ်နိုင်သည်'–ဟူသော ဒုတိယပဓာနစကားနှင့်*၂

၃။ 'လူတို့၏ယခုဘဝ ယခုသန္တာန်တွင် မဂ်ဉာဏ်,ဖိုလ်ဉာဏ်,နိဗ္ဗာန်ရရေးမှာ ရှေးပါရမီရှိပါမှရနိုင်ကြသည်'–ဟူသော တတိယပဓာနစကား–တို့ဖြစ်ကြသည်။*၃

ဤပဓာနစကားသုံးခွန်းနှင့်ဆက်စပ်၍ ဆရာတော်ကြီးရှင်းလင်းဟောပြောတော်မူပြန်သည်မှာ– သစ်ပင်,ချုံ–စသည်ပေါက်ရန် မျိုးစေ့သည်ပဓာနဖြစ်သော်လည်း၊ ယင်းမျိုးစေ့ရှိရုံနှင့် မလုံလောက်ဘဲ ပေါက်ရန်မြေ၊ မိုးရေ, လယ်ယာလုပ်သူဝီရိယ–စသည်လည်းလိုအပ်ကြောင်း ရှင်းလင်းမိန့်ကြားပါသည်။ ထို့နောက် လူတို့၏ပစ္စည်းဥစ္စာချမ်းသာရေး၌ ရှေးကံကုသိုလ်ကံသည် ပဓာနဖြစ်သော်လည်း မိဘဆရာသမားတို့၏အဆုံးအမ၊ ထိုလူတို့၏ဝီရိယ–စသည်လည်း လိုအပ်ကြောင်း ရှင်းလင်းမိန့်ကြားပါသည်၊ ထို့နောက် ယခုဘဝ မဂ်, ဖိုလ်, နိဗ္ဗာန်ရရေးမှာ ရှေးပါရမီဟောင်းသည် ပဓာနဖြစ်သော်လည်း လက်ငင်းဘဝ၌ ဥပဇ္ဈာယ်ဆရာကောင်း၊ ထိုရှင်လူတို့၏ဝီရိယ–စသည်လည်းလိုအပ်ကြောင်း ရှင်းလင်းမိန့်ကြားပါသည်။

အချို့သော ဗုဒ္ဓဘာသာဝင်သူတော်စင်တို့က လက်ငင်းရရှိထားသောလူ့ဘဝကို တန်ဖိုးမထားဘဲ နောင်ပွင့်လတ္တံ့သောမေတ္တေယျရှင်လက်ထက်၌ ကျွတ်တမ်းဝင်လိုသောဆန္ဒရှိကြသေးသည်။ ဤသို့သောပုဂ္ဂိုလ်တို့အတွက် လယ်တီဆရာတော်ကြီးက–

'နောင် မေတ္တေယျဘုရားသာသနာမှာ ပါရလိမ့်မည် ထင်တတ်ကြကုန်၏။ သာသနာတော်ကြီးနှင့်တွေ့ကြုံကြပါလျှင် ထင်ကြတိုင်းပင် ပါနိုင်ကြကုန်ရာ၏။ ထိုသာသနာ၌ ကျွတ်တမ်း,လွတ်တမ်းတွင် ပါဝင်နိုင်ကြရန်အရေးထက် ထိုသာသနာနှင့်တွေ့ကြုံနိုင်ကြရန်အရေးက အလွန်တရာခက်ခဲနက်နဲလျက်ရှိနေကြ၏။ အကြောင်းမူကား သာသနာတော်ကြီးနှစ်ပါး၏အကြား၌ သာသနာပ ဘဝကန္တာရခရီး အမိုက်

---

*၁ လယ်တီဆရာတော်ကြီး၏ နိယာမဒီပနီ။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၈၈–ခုနှစ်။ (စာမျက်နှာ–၄)။

*၂ ယင်း။ (စာမျက်နှာ–၅၊ ၆)။

*၃ ယင်း။ (စာမျက်နှာ–၆၊ ၇)။

နယ်ကြီးမှာ အမှောက်အမှားကြီး ဘယ်မျှတွေ့ကြုံရလိမ့်မည်မသိ၊ သတိမူကြ လေကုန်’[*၁] –ဟူ၍ ဆုံးမမိန့်ကြားတော်မူပါသည်။

## ရန်ကုန်မြို့ ဓမ္မသဝနဗုဒ္ဓသာသနာပြုအသင်း

လယ်တီဆရာတော်ကြီးသည် ရန်ကုန်မြို့၌သီတင်းသုံးနေတော်မူစဉ် တပည့်ဖြစ်သူဦးဝါယမ[*၂] ဦးဆောင်၍ ဖွဲ့စည်းတည်ထောင်ခဲ့သော[*၃] ရန်ကုန်မြို့ ဓမ္မသဝနဗုဒ္ဓသာသနာပြုအသင်းကြီး (Buddhist Propaganda Society) ၏ဦးစီးနာယကအဖြစ်ဆောင်ရွက်တော်မူပါရန် အသင်းလူကြီးများက လာရောက်တောင်းပန်သည့်အတွက် ထိုအသင်း၏တိုးတက်ရာတိုးတက်ကြောင်းတို့ကို ညွှန်ကြားဆောင်ရွက်တော်မူရပါသည်။

ဤအသင်းကို ရန်ကုန်မြို့ ဗဟန်းရပ် ကြားတောရလမ်းရှိ ဒေါ်စန္ဒာဇရပ်၌– ဘုရားရှင်ဟောညွှန်အပ်သော ဒုလ္လဘတရားငါးပါးတို့တွင် ဓမ္မသဝနခေါ် ဟုတ်မှန်ဖြောင့်မတ်သောတရားနည်းလမ်းကျကျမနာရသဖြင့် သဒ္ဓမ္မသဝနဒုလ္လဘတရားနှင့် သတ္တဝါအများလွဲဖယ်သွားကြရမည်ကို စိုးရိမ်သောကြောင့် ဟုတ်မှန်ဖြောင့်မတ်သောတရားတော်များ အစဉ်နာယူခွင့်ရကြစေရန် ဦးဝါယမ တည်ထောင်ခဲ့ခြင်းဖြစ်သည်။[*၄] ဦးဝါယမသည် ဤအသင်းတည်ထောင်ပြီးသည့်နောက် အသင်းသားများကြီးမှူးကာ ရန်ကုန်မြို့ သိမ်ကြီးတန်ဆောင်းနှင့် ဆူးလေဘုရားကုန်းတော်တို့တွင် တစ်ပတ်လျှင်သုံးကြိမ်တိတိ ကိုယ်တိုင်တရားဟောပြောခဲ့၏။[*၅] အခြားဓမ္မကထိကကိုယ်တော်တို့ကိုလည်း ဟောပြောစေသည်။ ထိုအဖွဲ့တွင် ရန်ကုန်မြို့အနောက်ပိုင်း၌ထင်ရှား၍ ချမ်းသာကြွယ်ဝသောသူဌေးသားချန်ချောခိုင်၊ သုဓမ္မဝတီတိုက်ရှင်ပွဲစားကြီးဦးဘာစိုင်၊ ဘလုပ်တိုက်ကိုယ်စားလှယ်ဦးခင်၊[*၆] ပညာဝန်ထောက်ကြီးဦးမှန်း–တို့ပါဝင်ကြသည်။ သက္ကရာဇ် ၁၂၆၉–ခုနှစ်၊ ကဆုန်လပြည့်နေ့ (၁၅)ရက် (အေဒီ–၂၅၊ ဧပြီလ၊ ၁၉၀၇–ခုနှစ်)ကစ၍ လစဉ် လပြည့်နေ့တိုင်း

---

[*၁] လယ်တီဆရာတော်ကြီး၏နိယာမဒီပနီ။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၈၈–ခုနှစ်။ (စာမျက်နှာ–၄)။

[*၂] နောင်အခါ အဂ္ဂမဟာပဏ္ဍိတ ဆရာမြို့–ဟု ထင်ရှားသောပုဂ္ဂိုလ်ဖြစ်သည်။ ဦးဝါယမသည် သက္ကရာဇ်–၁၂၃၇(အေဒီ–၁၈၇၅)ခုနှစ်၊ တောင်ငူခရိုင် ရွှေကျင်မြို့ ညောင်ပိုင်းရပ်ဇာတိဖြစ်ပြီး၊ ရွှေကျင်မြို့ ရွှေတောင်ဦးဘုရားအနီး မန္တလေးကျောင်းဆရာတော်ဦးသာသနထံ ရဟန်းခံ၍ပညာသင်ယူသည်။ ထို့နောက် မန္တလေးမြို့ ဘုရားကြီးတိုက်ဆရာတော်ဦးရန်ကုန်၊ ညောင်လေးပင်မြို့ တောရကြီးဆရာတော်ဦးသောမတို့ထံပညာသင်ယူပြီး၊ ရဟန်း ၁၀–ဝါအရ ၁၂၆၇(အေဒီ–၁၉၀၅)ခုနှစ်တွင် လယ်တီဆရာတော်ကြီးထံရောက်၍ ဆရာတော်ကြီးနောက်ပါးမှလိုက်ကာ တရားဟောကြားပုံဟောကြားနည်းကို နည်းခံသင်ယူခွင့်ရခဲ့သည်။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၃၆၉)။ ဦးဝါယမ တရားဟောရာတွင် လယ်တီဆရာတော်ကြီးဟောကြားပုံ အသံနှင့်ဌာန်ကိုသာ အတုခိုးနည်းယူရုံမက ဆရာတော်ကြီးဟောကြားတော်မူသည့်အတိုင်း တစ်လုံးမကျန် ထပ်တူပြန်လည်ဟောကြားလေ့ရှိသည်။ ပီမိုးနင်း၏ စကားပြောဟောနည်း။ ၁၉၆၁–ခုနှစ်။ (စာမျက်နှာ–၉)။

[*၃] ဤအသင်းကို သက္ကရာဇ် ၁၂၆၆ (အေဒီ–၁၉၀၆)ခုနှစ်ကပင် ဖွဲ့စည်းခဲ့ခြင်းဖြစ်သည်။

[*၄] ဓမ္မဒေသနာတရားသတင်းစာ။ ဒသမတွဲ၊ နံပါတ်–၁၁၇။ ၁၂၈၀–ပြည့်နှစ်၊ ဝါဆိုလ။ (စာမျက်နှာ–၄)။

[*၅] ထို့နောက် ဖျာပုံဦးစာရိန္ဒသည် ဓမ္မသဝနဗုဒ္ဓသာသနာပြုအသင်း၏ ဓမ္မကထိကဖြစ်လာပြီး နယ်လှည့်တရားဟောပြောခဲ့သည်။

[*၆] ဆာ ဂျေအေမောင်ကြီး၏ ဖခင်ဖြစ်သည်။

Registered No. R 87



# THE MONTHLY JOURNAL.








# ဓမ္မဒေသနာတရားသတင်းစာ။

| | | | |
|---|---|---|---|
| ဆဌမတွဲ၊ OL VI | ၁၂၇၆-ခုနှစ်၊ ၁၉၁၄-ခုနှစ်၊ | ဝါဆိုလ၊ ဇွန်လ၊ | နံပါတ် ၆၈။ No. 68. |

မာတိကာ၊





ရန်ကုန်မြို့ ဖယ်ရာလမ်း၊ တိုက်နံပါတ် ၂၆ မြန်မာပြည်ဗုဒ္ဓသာသနာ့ပြု စာပုံနှိပ်တိုက်။



သုဓမ္မဝတီပုံနှိပ်တိုက်ပိုင်ရှင်ဦးဘာဆိုင်



မစ္စတာချန်ချောခိုင်

တစ်လတစ်ကြိမ်တွင် အသင်းပိုင်ဓမ္မဒေသနာတရားသတင်းစာ (The Monthly Journal, Buddhist Propaganda Society. 1907) ကို ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။*၁ ထိုစာစောင်တွင် လယ်တီဆရာတော်ကြီးဟောကြားတော်မူသောတရားတော်အချို့ကို ဆရာမြို့က သူမှတ်သားထားသည့်အတိုင်း ပြန်လည်ရေးသားတင်ပြထားပါသည်။ ထို့ပြင် အသင်းပိုင်စာအုပ်များပုံနှိပ်နိုင်ရန်အတွက် ဗုဒ္ဓသာသနာပြုစာပုံနှိပ်တိုက်ကို ရန်ကုန်မြို့၊ အမှတ်–၂၆၊ ဖယ်ရာလမ်း (ယခု–ပန်းဆိုးတန်း) နေရာတွင် တည်ထောင်ခဲ့ကြသည်။

ဤသို့ ဓမ္မသဝနအသင်းလုပ်ငန်းကြီးကျယ်လာပြီး၊ အသင်းဝင်ပုဂ္ဂိုလ်များလည်း များပြားလာချိန်တွင် ဦးဝါယမသည် လုပ်ငန်းမနိုင်မနင်းရှိနေသဖြင့် အသင်းလူကြီးများက လယ်တီဆရာတော်ကြီးအား အကြီးအမှူးပြီစီဒင်ဥက္ကဋ္ဌအဖြစ်ဆောင်ရွက်ရန် အပ်နှံခဲ့ကြခြင်းဖြစ်သည်။ ထိုအသင်းကိုဆရာတော်ကြီးအုပ်ချုပ်သည့်အခါ ဥက္ကဋ္ဌမှာ အငြိမ်းစားဝန်ထောက်ကြီးဦးရွှေကိုင်ဖြစ်သည်။ အသင်း၏ရည်ရွယ်ချက်မှာ (၇)ချက်ရှိပြီး ယင်းတို့မှာ–

၁။ ရန်ကုန်မြို့မှစ၍ အမြို့မြို့အရွာရွာတို့၌ ဖြောင့်မတ်မှန်ကန်သော အရိယသစ္စာတရားကြီးများကို လူအပေါင်းတို့ နာကြားမှတ်သားနိုင်ကြရန် ဓမ္မကထိကပုဂ္ဂိုလ်များကိုပင့်၍ တရားဟောပွဲသဘင် ဆင်ယင်ကျင်းပပြုလုပ်ခြင်း၊

၂။ မြတ်စွာဘုရားသခင်၏ ပရိယတ္တိသာသနာတော်မြတ်ကြီးကို ပစ္စည်းလေးပါးတို့ဖြင့် ထောက်ပံ့လှူဒါန်းပူဇော်ခြင်း၊

၃။ အရပ်ရပ်မှလာရောက်သည့် အာဂန္တုပုဂ္ဂိုလ်ကောင်းများတည်းခိုရန် သံဃိကကျောင်းတစ်ဆောင်၊ ၎င်းပြင် တရားဟော, တရားနာယူရန်နှင့် အင်္ဂလိပ်မြန်မာစာပေသင်ကြားရန် ဓမ္မပါသာဒပြာသာဒ်အဆောက်အအုံတစ်ဆောင်ဆောက်လုပ်ခြင်း၊

၄။ တရားစာအမျိုးမျိုးကိုပုံနှိပ်လုပ်ဆောင်ရန် ဗုဒ္ဓသာသနာပြုစာပုံနှိပ်တိုက်တစ်ခုကို တည်ထောင်ခြင်း၊

၅။ ဓမ္မကထိကပုဂ္ဂိုလ်များသို့ လိုအပ်သောအထောက်အပံ့ကိုလှူဒါန်းခြင်း၊

၆။ အနာထကိုးကွယ်ရာမဲ့ဖြစ်ကုန်သော လူအိုများနှင့် မစွမ်းမသန်ဒုက္ခိတသူဆင်းရဲများကို မွေးမြူစောင့်ရှောက်ရန် ဗုဒ္ဓဘာသာသီလရှင်တို့ထိန်းသိမ်းအုပ်ချုပ်သည့် လူအိုရုံတည်ထောင်ခြင်း၊

၇။ အသင်း၏ရည်ရွယ်ရင်းအကျိုးဖြစ်ထွန်းရန် ငွေကြေးအစဉ်ဝင်မည့်နည်းလမ်း တစ်စုံတစ်ရာပေါ်ပေါက်ရှိသည့်အခါဆောင်ရွက်ခြင်း–တို့ဖြစ်ကြပါသည်။

နောင်အခါတွင် ရန်ကုန်မြို့တွင်ကျင်းပပြုလုပ်သော လယ်တီဆရာတော်ကြီး၏တရားပွဲများကို ဤဓမ္မသဝနအသင်းကသာ ကြီးမှူး၍ဆောင်ရွက်ခဲ့ကြသည်။ ပရမတ္ထသံခိပ်အသင်းနှင့်

*၁ တက္ကသိုလ်ထင်ကြီး၏ မြန်မာနိုင်ငံသတင်းစာများအညွှန်း၊ ပထမတွဲ။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၁၉၉၂–ခုနှစ်။ (စာမျက်နှာ–၁၂၀)။

ဓမ္မသဝနအသင်းသည် ပူးပေါင်းမိကြသည့်အတွက် လယ်တီဆရာတော်ကြီး၏သာသနာပြုလုပ်ငန်းသည် အထူးကြီးကျယ်လာခဲ့လေသည်။

ပုသိမ်မြို့သို့ကြွတော်မူခြင်း

သက္ကရာဇ် ၁၂၇၀–ပြည့်နှစ် တပေါင်းလ (အေဒီ ၁၉၀၉–ခုနှစ်၊ ဖေဖော်ဝါရီလ)တွင် လယ်တီဆရာတော်ဘုရားကြီးသည် ပုသိမ်မြို့မှအင်စပိတ်တော်ဦးကျော်စံနှင့် မောင်းထောင်ကျောင်းဒါယကာကြီး ဦးတက်ဖြိုး၊ *၁ ပုသိမ်မြို့၌ရုံးစိုက်နေသူ ဧရာဝတီတိုင်းမင်းကြီး မျက်နှာဖြူလူမျိုး ဥပါသကာ မစ္စတာမက္ကဆွဲ (Mr. Maxwell) တို့၏ပင့်လျှောက်ထားချက်အရ ပုသိမ်မြို့သို့ကြွတော်မူလာခြင်းဖြစ်သည်။ ဆရာတော်ဘုရားကြီး စီးနင်းလိုက်ပါလာတော်မူသောသင်္ဘောသည် ပုသိမ်မြို့ဆိပ်ကမ်းသို့ဆိုက်ရောက်လျှင် ဆိပ်ကမ်းထက်မှ မြို့သူမြို့သားများတို့ စုပေါင်းခမ်းနားစွာ ဆီးကြိုပူဇော်ကြလေသည်။ ပြီးလျှင် ဆရာတော်ကြီးအား ဦးတက်ဖြိုးဆောက်လုပ်လှူဒါန်းထားသော နိဂြောဓကုန်းရှိ မောင်းထောင်ကျောင်းတိုက် *၂ သို့ပင့်ဆောင်ခဲ့ကြသည်။

ဧရာဝတီတိုင်းမင်းကြီးမစ္စတာမက္ကဆွဲသည်လည်း ဆရာတော်ဘုရားကြီး ပုသိမ်မြို့သို့ရောက်ရှိကြောင်းသတင်းရလျှင် ဆရာတော်ကြီးသီတင်းသုံးတော်မူရာ နိဂြောဓကုန်း မောင်းထောင်တိုက်သို့ရောက်ရှိလာပြီး၊ 'ဤမြို့၌ ဆရာတော်ဘုရားတရားဟောတော်မူရာတွင် အောက်ပါအချက်သုံးချက်ကိုပါ ထည့်သွင်းဟောကြားပေးပါမည့်အကြောင်း' လျှောက်ထားတောင်းပန်ခဲ့ပါသည်။

မစ္စတာမက္ကဆွဲမှာ မျက်နှာဖြူလူမျိုးဖြစ်သော်လည်း တိုင်းရင်းသားမြန်မာလူမျိုးများကိုအထူးခင်မင်ပြီး မြန်မာဓလေ့ထုံးတမ်းတို့ကိုယုံကြည်လေ့ရှိသဖြင့် မြန်မာအမျိုးသားတို့အတွက်လိုအပ်နေသော စား,ဝတ်,နေရေးပြုပြင်မှုဆိုင်ရာအချက်ကြီးသုံးချက်ကို မြန်မာလူမျိုးတို့အား ဆရာတော်ဘုရားကြီးစကားဖြင့်ဆုံးမပေးပါရန် လျှောက်ထားခြင်းဖြစ်ပေသည်။ မစ္စတာမက္ကဆွဲ လျှောက်ထားသော အချက်သုံးချက်မှာ–

၁။ မြန်မာအမျိုးသားတို့သည် မိမိကိုယ်ပိုင်ဆောက်လုပ်သော တိုက်တာအိမ်ခြေဟုမရှိဘဲ တရုတ်,ကုလားတို့ပိုင်တိုက်တာများမှာသာငှားနေရသည့်အချက်၊

---

*၁ သမာဓိမြို့ဝန်ဦးတက်ဖြိုး ဖြစ်သည်။

*၂ ဤကျောင်းကို ဦးတက်ဖြိုးသည် သက္ကရာဇ် ၁၂၆၇–ခုနှစ်၊ တန်ခူးလဆုတ် ၁၂–ရက်(အေဒီ–၃၀၊ ၄၊ ၁၉၀၅–ခုနှစ်)တွင် ဆောက်လုပ်ပြီး၊ မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးအားပင့်ဆောင်၍လှူဒါန်းခဲ့သည်။ ဤကျောင်း၌ မဟာဝိသုဒ္ဓါရုံဆရာ၊ပော်ကြီးသည် ခေတ္တသီတင်းသုံးနေတော်မူပြီး၊ ဝိမလာလင်္ကာရကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ရ သုံးဆယ်မောင်းထောင်ဆရာတော်ဦးဝိမလအားပင့်ရန် ညွှန်ကြားတော်မူပြီး မန္တလေးသို့ပြန်ကြွသွားသည်။ မောင်းထောင်ဆရာတော်ဦးဝိမလသည် ၁၂၆၆ (၁၉၀၄) ခုနှစ်မှ ၁၂၆၉(၁၉၀၇)ခုနှစ်အထိ သုံးနှစ်တိုင် ပုသိမ်မြို့ မောင်းထောင်တိုက်၌ သီတင်းသုံးနေတော်မူပြီး၊ ၁၂၆၉–ခုနှစ်၊ တပို့တွဲလ (အေဒီ ၁၉၀၈–ခုနှစ်၊မတ်လ)တွင် သုံးဆယ်မြို့သို့ ပြန်လည်ကြွတော်မူခဲ့သည်။ ၁၂၇၀–ပြည့်နှစ် လယ်တီဆရာတော်ကြီး မောင်းထောင်တိုက်သို့ရောက်ရှိတော်မူစဉ်အခါ မောင်းထောင်တိုက်တွင် တတိယဆရာတော်ဦးသုဝဏ္ဏ အုပ်ချုပ်နေပါသည်။ အရှင်နာဂဝံသ၏ သုံးဆယ်မြို့ မောင်းထောင်ကျောင်းတိုက် ရာပြည့်သာသနာဝင်။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၉၀–ပြည့်နှစ်။ (စာမျက်နှာ–၂၇)။

ပုသိမ်မြို့မောင်းထောင်ကျောင်းတိုက်





ပုသိမ်မြို့မောင်းထောင်ကျောင်းတိုက်သစ်နှင့်မူလကျောင်းဒါယကာကြီးဦးတက်ဖြူး

၂။ မြန်မာအမျိုးသားတို့သည် အမျိုးသားအဝတ်အထည်ပိတ်စတို့ထက် အနောက်တိုင်းဖြစ်အရှေ့တိုင်းဖြစ် အဝတ်အထည်ပိတ်စတို့ကိုသာ နှစ်နှစ်ခြိုက်ခြိုက်ဝတ်ဆင်နေကြသည့်အချက်၊

၃။ မြန်မာအမျိုးသားတို့သည် မိမိတို့ဓလေ့ဘာသာအစားအသောက်များထက် ဥရောပအစာ, တရုတ်စာ, ကုလားစာတို့ကိုခုံမင်အကြိုက်တွေ၍ ငွေကြေးပေးကာ ဝယ်စားနေကြသည့်အချက်–

ဆရာတော်ကြီးက မျက်နှာဖြူဒါယကာကြီး၏ဆန္ဒသည် မိမိတို့မြန်မာလူမျိုးများအတွက် ဝံသာနုရက္ခိတစိတ်ဓာတ်ပျိုးထောင်ရာ၌ အလွန်အရေးပါသောအခြေခံအချက်ကြီးများဖြစ်၍ ညစဉ်တရားပွဲတို့တွင် ထည့်သွင်းဟောကြားတော်မူခဲ့ပါသည်။*၁

## မြန်မာလူမျိုးအတွက်တရားတော်

လယ်တီဆရာတော်ကြီးသည် ပုသိမ်မြို့ဟိုက်စကူးကျောင်းကြီး၌ ညတရားပွဲများကို ညစဉ်ကျင်းပတော်မူ၏။ ထိုစဉ်က တပေါင်းလဆန်း ၈–ရက် (အေဒီ–၂၆၊ ဖေဖော်ဝါရီလ၊ ၁၉၀၉–ခုနှစ်)တွင် မီးခြောက်ပါးတရားကိုဟောကြားတော်မူပါသည်။*၂ နောက်တစ်ရက်တွင် အခွန်အတုပ်တရားတော်ကိုဟောကြားတော်မူပါသည်။*၃ ပဋ္ဌာန်းတရားတော်ကြီးကိုဟောကြားတော်မူသောညကမူ ဆရာတော်ဘုရားကြီးက မိမိ၏သဘောထားစိတ်ထားတော်ကိုမိန့်တော်မူပုံမှာ–

'မောင်ကျော်စံရေ–

မင်းတို့ ပုသိမ်မြို့သူမြို့သား လူအများတို့က တီးတိုးပြောဆိုကြတဲ့ စကားအချက်က သည်လိုတဲ့ကွဲ့။ လယ်တီဆရာတော်ဟောပြောတဲ့တရားကလဲ ပါဠိတစ်တိုတစ်စ, တစ်ပုဒ်တစ်ဂါထာမျှမပါဘဲ မြန်မာစကားပြေသက်သက်နဲ့ ဆားမပါတဲ့ဟင်းလိုပေါ့ပျက်ပျက်ရှိလှချေရဲ့လို့ စကားကဲ့ရဲ့သံများကို ကြားရတယ်ကွဲ့။ ကိုင်း၊ နားထောင်ကြကွဲ့။ 'ဟေတုပစ္စယော'–တဲ့။ အဲဒါ ပါဠိကွဲ့၊ နားလည်ကြရဲ့လား။ အဲဒီပါဠိက ပဋ္ဌာန်းပါဠိတော်ကြီးမှာ အစဖြစ်တဲ့ အခြေခံပါဠိတော်ကွဲ့။

ဒို့မြန်မာမာလူမျိုးတွေခက်နေတာက ကိုယ်နားမလည်တဲ့ ကိုယ်မပိုင်တဲ့ပါဠိများကိုရွတ်ဆိုပြီး မြိုင်မြိုင်ဆိုင်ဆိုင် လှိုင်လှိုင်ကြီးဟောပြောတဲ့ပုဂ္ဂိုလ်မျိုးကိုမှ လူတော်လူကောင်း, လူတတ်လူမြတ်, လူသမတ်လို့ ပင့်မြှောက်ချီးကျူးကြတယ်။ ဒို့ မြန်မာလူမျိုးမှာ မြန်မာလိုတိကျမှန်ကန်စွာပြန်ဆိုပြီး မြန်မာ့နားမှာ ကွက်ကွက်ကွင်းကွင်း

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ ၇၂–၇၆)။

*၂ လယ်တီဆရာတော်ကြီး၏ လယ်တီဟောကိန်းတရားစာ။ မြန်မာအမျိုးသားစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ ၁၂၈–၁၆၇)။

*၃ ယင်း။ (စာမျက်နှာ ၁၆၇–၁၇၇)။

ထင်းခနဲလင်းခနဲ ဝင်းခနဲရှင်းခနဲ မြင်လုံးထွားအောင် မြန်မာဆန်ဆန် ဘာသာပြန်ကိန်းကြီးလိုနေတယ်ကွဲ့။

ပဋ္ဌာန်း(၂၄)ကျမ်းကိုနှုတ်ငုံဆောင်ပြီး ဟောကြားလို့ နာရသူကနာသော်လဲ အနက်အဓိပ္ပာယ် မြန်မာပြန်ကိန်းကြီးချက်မပိုင်ရင် ဟောသူနာသူမှာ ကုသိုလ်တော့ရပါရဲ့။ ဓမ္မရသ–တရားအရသာ, ဓမ္မသဘာဝ–တရားသဘောကိုတော့ ရယူခံစားနိုင်တဲ့အခြေအနေမဆိုက်ဘူးကွဲ့။

ဒို့မြန်မာလူမျိုးမှာခက်နေတာက တစ်ခုကျန်သေးတယ်။ ကျမ်းစာရေးတော့မယ်ဆိုရင် ဗီရိုတွေရှိသမျှ, စာတိုက်တွေရှိသမျှ ပေစာထုပ်တွေ ကျမ်းစာအုပ်တွေထုတ်လိုက်ရတာ ပိုးဟပ်တို့အိမ်မြှောင်တို့တောင် ကောင်းကောင်းမနေရရှာဘူး။ ပေစာဘုတ်အုတ်တွေရှေ့ကထား– ထို့ကြောင့် ပါဠိတော်ကဒီလိုဆိုတယ်၊ အဋ္ဌကထာက, ဋီကာက, ယောဇနာက, နိဿယက, အာစရိယဝါဒက သည်လိုဆိုတယ်လို့ မိမိရေးတဲ့ကျမ်းစာအုပ်မှာ ပါဠိ, အဋ္ဌကထာ, ဋီကာ, ယောဇနာ, နိဿယ, အာစရိယဝါဒ, ပါဠိအကိုးအကား အထောက်အထားတွေမြိုင်မြိုင်နဲ့ ကျမ်းစာအုပ်များကိုရေးသားစီရင်ကြတယ်။

စာကြည့်ပရိသတ်တွေကလဲ– ပါဠိတော်တွေစုံပါပေရဲ့။ အဋ္ဌကထာ, ဋီကာ, ယောဇနာ, နိဿယစုံပါပေရဲ့, နှံ့စပ်ပါပေရဲ့–လို့ ချီးကျူးစကားပြောကြားကြပေတယ်။ ကျမ်းပြုဆရာကလဲ လူကြိုက်များတဲ့ပါဠိအကိုးအကားမြိုင်ဆိုင်မှုတွေကိုသာဂရုစိုက်ကာရေးရတာကြောင့် ပါဠိတတ်ကျွမ်းဟဲ့ရဟန်းတွေရဲ့ဘောင်မှာသာ ခေါင်းပေါင်းစထောင်ကြပါပေတယ်။

ပါဠိအကိုးအကားများလို့ လူသာမန်တို့မဖတ်နိုင်ဘဲ ခက်ခဲနက်နဲမှုသာ ကျမ်းပြုဆရာဂုဏ်ထင်ပေါ်ကြသဖြင့် ပါဠိအကိုးအကားများစွာနှင့် ထုတ်ဆောင်ကြရသောကြောင့် ပါဠိမကျွမ်းကျင်ကြသောမြန်မာလူမျိုးများမှာ ဓမ္မရသ တရားအရသာများကို မခံစားရဘဲ ကုသိုလ်ရရုံလောက်နဲ့သာ တစ်ဘဝပြီးဆုံးသွားကြရလေတော့တယ်။

ငါတို့မန္တလေးစံကျောင်းတိုက်မှာ နေ့စဉ် ဤအခက်အခဲကြီးတွေကိုကျော်လွှားနိုင်အောင် ငါစာတတ်လျှင် မြန်မာလူမျိုးများအတွက် မြန်မာပြန်ဆိုမှုလုပ်ငန်းစဉ်ကြီးကိုတွင်ကျယ်စွာလုပ်မယ်လို့ မြန်မာစကားအပြောအဆိုတတ်သိလိမ္မာကြတဲ့ ရွှေပြည်ဝန်ကြီးဦးဘိုးလှိုင်၊ လူပညာရှိကြီး စာတတ်ပေတတ်စကားတတ်ဦးဖားတို့ထံ သီတင်းနေ့တိုင်းဝတ်ထားပြီး မြန်မာစကားလေ့လာပြောကြားဆွေးနွေးမှုများပြုလုပ်ခဲ့တယ်။

ငါတို့သဘောက ကျမ်းပြုဆရာဂုဏ် မထင်ပေါ်ချင်နေပါစေ၊ ကျမ်းစာကြည့်ရှုကြတဲ့ စာကြည့်ပရိသတ်တွေ ကွက်ကွက်ကွင်းကွင်း ထင်းခနဲလင်းခနဲ ဝင်းခနဲအသိအလိမ္မာဉာဏ်ရှင်းမှုကိုသာပဓာနထား၍ ရေးသားတဲ့ကျမ်းစာတွေ များရမယ်။ ပါဠိအကိုးအကားများမှာ မထည့်လျှင်မဖြစ်နိုင်မှသာ ထည့်တယ်။ ပါဠိပါဌ်သား

နည်းနိုင်သမျှနည်းအောင် ဂရုစိုက်ပြီးရေးတယ်။ သို့သော် ပါဠိတော်စည်းမျဉ်း, ဓမ္မစည်းမျဉ်း အလွတ်ရေးတာမဟုတ်၊ စည်းမျဉ်းကိုက်ညီအောင်ရေးတယ်။ အချို့က ဒို့ကျမ်းစာအုပ်တွေ ပါဠိပါဌ်သားမပါဘူး၊ ပေါ့ပျက်ပျက်ရှိလှတယ်လို့လဲ ကဲ့ရဲ့ကြတယ်၊ ဒို့မြန်မာလူမျိုးအတွက်ရေးတာ ပါဠိလူမျိုးများအတွက်ရေးတာမဟုတ်ဘူးလို့ပြော လိုက်ရတယ်ကွဲ့ မောင်ကျော်စံရဲ့၊ စကားတွေများလာလိုက်တာ ဘယ်ရောက်လာ မှန်းတောင်မသိတော့ဘူး။ ပထမစကားပြန်ဆက်ကြဦးစို့'–

ဟုမိန့်တော်မူကာ ဟေတုပစ္စယော–ဟိတ်ဖြစ်၍ ကျေးဇူးပြုတတ်သောတရားကို မြန်မာလူမျိုး တို့နားလည်အောင် သုံးညတိုင်တိုင် ဆက်တိုက်ဟောကြားတော်မူခဲ့ပါသည်။

နောက်ဆုံးညတွင် အလောင်းတော်ကုသမင်းကြီးက လောဘဟိတ်သည် ပဘာဝတီ မင်းသမီး၌တွယ်တာကပ်ငြိအခြေစိုက်မိသဖြင့် အလောင်းတော်ကြီးမှာ အိုးလုပ်ရခြင်းဒုက္ခ၊ ဖျာရက် ရခြင်းဒုက္ခ၊ ပွဲတော်အုပ်ဆက်ရခြင်းဒုက္ခ အမျိုးမျိုးအဖုံဖုံတို့ကို စုံလင်အောင်အကျယ်ဝေဖန်၍ ကုသဇာတ်တော်ကြီး(ဇာ၊၂။၆၆။ ဇာ၊ဋ္ဌ၊၅။၂၉၇။)ကိုဟောတော်မူပါသည်။

ရောဝတီမင်းကြီးမစွတာမက္ကဆွဲသည် ညစဉ်ကျင်းပပြုလုပ်သော လယ်တီဆရာတော်ဘုရား ကြီး၏တရားပွဲတိုင်းသို့လာရောက်နာကြားပြီး၊ ပါဠိပါဌ်သားနည်းနည်းဖြင့် ဓမ္မရသပေါ်အောင် ဟောတော်မူခဲ့သောကြောင့် တရားတော်များအပေါ်၌ ယုံမှားခြင်းကင်း နှစ်သက်ခြင်းပီတိဖြစ်လျက် ဆရာတော်ဘုရားကြီးအား အလွန်ကြည်ညိုကာ ခရီးဆောင်နာရီတစ်လုံး၊ သင်္ကန်းတစ်စုံ၊ ပိဋကတ် တစ်စုံတို့ကိုလှူဒါန်းလေသည်။[*၁]

## တရားယှဉ်၍ဟောတော်မူရခြင်း

ပုသိမ်မြို့၌ လယ်တီဆရာတော်ကြီးသည် ညစဉ်ညတိုင်း ဟိုက်စကူးကျောင်းကြီးအတွင်း၌ တရားပွဲများဟောကြားတော်မူခိုက် ပေါင်းတည်မြို့ မင်းကျောင်းတိုက် ဂိုဏ်းချုပ်ဆရာတော်ကြီး ဦးသုန္ဒရ[*၂] ၏တရားပွဲသည်လည်း ပုသိမ်မြို့လယ် ဘုရားကုန်းတော်၌ ညစဉ်ကျင်းပနေလေသည်။ သို့ဖြင့် ပုသိမ်မြို့သူမြို့သားများသည် လယ်တီဆရာတော်ကြီး၏တရားပွဲသို့ အများအပြား

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၈၁)။

*၂ မင်းကျောင်းဆရာတော်ကြီးမှာ သက္ကရာဇ်–၁၂၁၂ (အေဒီ–၁၈၅၀)ခုနှစ်တွင် ကျောက်ပန်းတောင်းမြို့နယ်၊ စဲကန်ရွာ၌ ဖွားၐ၍၊ ပင်းမြို့အပိုင် အင်းကန်ရွာ မင်းကျောင်းဆရာတော်ကြီးထံ ပညာသင်ယူခဲ့ရ၏။ ရဟန်းဖြစ်ပြီးသော် မန္တလေးမြို့ မြောက်ပြင် သစ်ဆိမ့်တိုက်၌ပညာသင်ယူပြီး၊ ၁၂၃၆ (အေဒီ–၁၈၇၄)ခုနှစ်တွင် ဝိနည်းအာဂုံပြန်ပွဲ၌ ဝင်ရောက်ပြန်ဆိုနိုင်သဖြင့် 'ဉာဏတောဝိဘင်္ဂရေ'ဘွဲ့ရခဲ့သည်။ ၁၂၃၉ (၁၈၇၇)ခုနှစ်တွင် ဝိနည်းငါးကျမ်းပြန်ဆိုနိုင်သဖြင့် 'ဝိနယဓရ'၊ 'ပထမစာတော်ချ' စသည်ဘွဲ့များရရှိခဲ့သည်။ ထို့နောက် ဥပဇ္ဈာယ် မင်းကျောင်းဆရာတော်ကြီးထံ ပြန်လည်နေထိုင်ရင်း ဆရာတော်ကြီး ပျံလွန်သော် ဒုတိယမင်းကျောင်းဆရာတော်အဖြစ်သို့ရောက်ရှိသည်။ ၁၂၆၄ (အေဒီ–၁၉၀၂)ခုနှစ်တွင် ပေါင်းတည်မြို့ မင်းကျောင်းသို့ရောက်ရှိ၍ မင်းကျောင်းဆရာတော်အဖြစ်ထင်ရှားသည်။ ယခု ပုသိမ်မြို့ကပင့်သောကြောင့် ပုသိမ်သို့ ကြွလာပြီး တရားဟောတော်မူရခြင်းဖြစ်သည်။ မင်းကျောင်းဆရာတော်ကြီးသည် တရားဟောအထူးကောင်းမွန်ကြောင်း ထင်ရှားသည်။ အရှင်ဩဘာသ၏ ပေါင်းတည်မြို့ မင်းကျောင်းဂိုဏ်းချုပ်ဆရာတော်ဦးသုန္ဒရထေရုပ္ပတ္တိ။ (စာမျက်နှာ–၂၇)။

လာရောက်နာယူကြသည့်နည်းတူ ပရိသတ်များစွာတို့သည်လည်း မင်းကျောင်းဆရာတော်ကြီး၏ တရားပွဲသို့ သွားရောက်နာယူကြလေသည်။

ညဥ့်အခါ ဆရာတော်ကြီးနှစ်ပါးတို့ တရားပွဲကိုယ်စီဖြင့် ပုသိမ်မြို့သူမြို့သားတို့အား တရားရေအေးတိုက်ကျွေးနေတော်မူကြပြီး၊ နေ့အခါတွင် မင်းကျောင်းဆရာတော်ကြီးသည် မိမိထက်သက်တော်ဝါတော်ကြီးရင့်သော လယ်တီဆရာတော်ကြီးသီတင်းသုံးရာ မောင်းထောင်တိုက်သို့ ကြွရောက်ဦးခိုက်၍ တစ်ပါးနှင့်တစ်ပါး နှစ်သက်ဖွယ်တရားစကားစသည်ဆွေးနွေး၊ မန္တလေးမြို့၌ နေတော်မူစဉ်က နောက်ကြောင်းဖြစ်စဉ်တို့ကိုပြန်လည်မိန့်ကြားတော်မူကြရင်း ဆရာတော်ကြီးနှစ်ပါး ဝမ်းမြောက်ဝမ်းသာရှိတော်မူကြပါသည်။*၁

**ဝက်,ကြက်တို့အတွက်ရှေ့နေ**

လယ်တီဆရာတော်ဘုရားကြီးသည် ပုသိမ်မြို့ နိဂြောဓာရုံကုန်း မောင်းထောင်တိုက်တွင် သီတင်းသုံးနေစဉ်အတွင်း ကျောင်းဒကာကြီးသုံး,လေးယောက်သည် ဆရာတော်ဘုရားကြီးရှေ့တော်မှောက်သို့ရောက်လာကြပြီး အောက်ပါအတိုင်းလျှောက်ထားကြသည်။*၂

> 'ဆရာတော်ဘုရားသည် နွားသတ္တဝါတို့၏အသက်ဘေးကိုသာ ကာကွယ်စောင့်ရှောက်တော်မူတယ်လို့သိရပါတယ်။ ဝက်သတ္တဝါ, ဆိတ်သတ္တဝါ, ကြက်သတ္တဝါ, ငှက်သတ္တဝါတို့၏အသက်ဘေးကိုတော့ မကာကွယ်မစောင့်ရှောက်တော့ဘူးလား။ နွားသတ္တဝါကိုတော့ချမ်းသာစေ, အခြားသတ္တဝါတို့ကိုတော့လျစ်လျူရှုထားခြင်းသည် ဆရာတော်ဘုရား၏မေတ္တာတော်သည် မညီမျှဘဲ တစ်ဖက်သတ်ဖြစ်မနေပေဘူးလား ဘုရား'–ဟုဖြစ်သည်။

ထိုအခါ လယ်တီဆရာတော်ဘုရားကြီးက အကဲကိုကြည့်၍ ရုတ်တရက်မိန့်တော်မူလိုက်သည်မှာ–

---

*၁ ဤဆရာတော်ကြီးနှစ်ပါးသည် ရှေးယခင်က မန္တလေးမြို့၌တွေ့ဆုံတော်မူခဲ့ကြဖူးပြီး၊ နောင်အခါတွင် ရန်ကုန်မြို့၌တစ်ကြိမ်၊ သာယာဝတီ ဇီးကုန်းမြို့၌တစ်ကြိမ် ကြုံတွေ့တော်မူကြပါသေးသည်။ ယင်း။ (စာမျက်နှာ–၂၈)။

*၂ ထိုဒါယကာများသည် ဦးပဒုမ၏တပည့်များဟုဆိုကြသည်။ ဤနေရာ၌ ပုသိမ်ဦးပဒုမအကြောင်းတင်ပြရန်မှာ– ဆရာတော်ဦးပဒုမသည် သီလဝန်, ပညဝန်ပုဂ္ဂိုလ်ဖြစ်ချေသည်။ စိတ်သဘောထားကောင်းမွန်၍ အမူအရာ လွန်စွာမှယဉ်ကျေးသိမ်မွေ့သောဆရာတော်ကြီးဖြစ်သည်။ ဦးပဒုမ၏တပည့်ဒါယိကာမကြီးအများ လယ်တီဆရာတော်ကြီးထံ နွားသားရှောင်ကြဉ်ကြောင်းကတိပြုကြသည်။ သို့ကတိပြုရာ၌ ရှေးဟောင်းသုတေသနပညာရှင် ဆရာကြီးမွန်ဖိုကေ၏မိခင်ကြီးလည်းတစ်ဦးအပါအဝင်ဖြစ်ကြောင်းနှင့် ပုသိမ်မြို့ နိဂြောဓာလမ်းရှိ ပုဂံကျောင်းတိုက်ကြီး၏ တိုက်ကျောင်းမကြီးတိုက်ဦးခန်းတွင် ဦးပဒုမစုဆောင်းထားခဲ့သော ပေစာများ၊ အမရကောသ–အစရှိသော သက္ကတစာပေများစွာတွေ့ရ၍ ဆရာတော်ဦးပဒုမ၏ပညာအဆင့်အတန်းကို မှန်းဆနိုင်ကြောင်းတို့ကို ဆရာကြီးဦးဖိုကေ၏ (၁၄၊ ၆၊ ၁၉၈၃–ခုနှစ်)ရက်စွဲပါ ပေးစာ၌ ရှင်းလင်းရေးသားထားပါသည်။ ဦးပဒုမသည် သက္ကရာဇ်–၁၂၂၀ (အေဒီ–၁၈၅၈)ခုနှစ်တွင်ဖွား၍၊ ရဟန်းဖြစ်သော် မန္တလေးမြို့အနောက်ပြင် မြတောင်ကျောင်းတိုက်၌ ပထမမြတောင်ဆရာတော်ကြီးနှင့် ဆရာတော်ဦးပဏ္ဍိဝံသတို့ထံပညာသင်ယူပြီး ပုသိမ်မြို့တောင်ပိုင်း ကုသိနာရုံကုန်းသာကျောင်းသို့ပြန်၍သီတင်းသုံးနေပါသည်။ မန်လည်ဆရာတော်ကြီးနှင့် ကဗျာအပြန်အလှန်ရေးစဉ် ၁၂၅၄ (အေဒီ–၁၈၉၂) ခုနှစ်က ဦးပဒုမမှာ သိက္ခာ(၁၅)ဝါသာရှိသေးသည်။ ဒဂုန်ဦးထွန်းမြင့်၏ ပုသိမ်ဆရာတော်(ဆောင်းပါး)။ ပုသိမ်မဂ္ဂဇင်း၊ ၁၉၅၇–ခုနှစ်။ (စာမျက်နှာ–၁၁၊ ၁၂)။

'အေးကွဲ့၊ ငါ့မှာတော့ သင်တို့သိတဲ့အတိုင်းပဲ မြို့ရိုး,ရွာရိုးရောက်ပြီး တရားလဲ ဟောရသေးတယ်။ အဘိဓာရာယ်ကိုလဲ ငြိမ်းစဲအောင်လုပ်ရသေးတယ်။ အဲသည်အထဲက နွားတစ်မျိုးလောက်ကိုသာဆွဲသွားနိုင်တယ်။ ကြွင်းကျန်တဲ့ ဝက်, ဆိတ်, ကြက်, ငှက်တို့ကိုတော့ သင်တို့ရဲ့ဆရာတော်တွေအရှိသားပဲ။

ပမာပြောရရင်– အရှေ့ကျောင်းဘုန်းကြီးက ဝက်အတွက်ဟောပြောလျှင် အနောက်ကျောင်းဘုန်းကြီးက ဆိတ်,၊ မြောက်ဘုန်းကြီးက ကြက်၊ တောင်ကျောင်း ဘုန်းကြီးကငှက်–စသည်ဖြင့်ဟောပြောသွားကြလျှင် တိရစ္ဆာန်သတ္တဝါတွေကုန်ရော ပေါ့ကွဲ့။

အခုတော့ သင်တို့က သည်လိုမှမဟုတ်ဘဲ၊ တဆိတ်ရှိလျှင် လယ်တီ၊ တရား ဟောစရာရှိလျှင် လယ်တီ၊ အဲသည်လိုအထဲက တတ်အားသမျှ နွားတစ်မျိုးကိုသာ ပြေးရင်းလွှားရင်းဆွဲသွားနိုင်တယ်။ အဲဒါကြောင့် သင်တို့ကိုးကွယ်တဲ့ ဆရာတော် တို့ကိုလဲ ကြွင်းကျန်နေသေးတဲ့ ဝက်, ဆိတ်, ကြက်, ငှက်တို့အတွက် တရားဟော ထွက်တော်မူကြပါဦး'

ဟု ခပ်တင်းတင်း ပြတ်ပြတ်သားသားမိန့်တော်မူလိုက်ရာ၊ ထိုဒကာကြီးများသည် လယ်တီ ဆရာတော်ဘုရားကြီးအား လွန်စွာမှကြည်ညိုသောစိတ်မြတ်နှင့် အထပ်ထပ်ရှိခိုးကန်တော့ခဲ့ကြ လေသည်။*၁

စတုစတ္တာလီသမဝါကပ်တော်မူခြင်း

သက္ကရာဇ် ၁၂၇၁–ခုနှစ် ဝါတွင်းကာလ (အေဒီ ၁၉၀၉–ခုနှစ်၊ ဇူလိုင်လ)တွင် လယ်တီ ဆရာတော်ကြီးသည် နောက်ပါတပည့်သံဃာတစ်ပါးကိုသာခေါ်ယူပြီး ရေဝတီတိုင်း၊ သာပေါင်း မြို့သို့ သင်္ဘောဖြင့်ကြွတော်မူခဲ့ပြီး၊ သာပေါင်းမြို့အနောက်ဘက်ရှိ ပိန္နဲကုန်းရွာအနီး ဘာဝနာ ကုန်း*၂ ကမ္မဋ္ဌာန်းတဲကျောင်း၌ (၄၄)ကြိမ်မြောက် စတုစတ္တာလီသမဝါကိုကပ်ဆိုတော်မူခဲ့ပါသည်။

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၈၁၊ ၈၂)။ ဆရာကြီးဦးလှတင်၏ စာအုပ်တွင် 'ဦးပဒုမ၏ ဆွမ်းဒကာမတစ်ဦး ဆရာတော်ကြီးထံလာရောက်လျှောက်ထားသည်' ဟု ရေးသားထားရာ၊ ထိုခေတ်ထိုအခါက လယ်တီဆရာတော်ကြီး၏ ဘုန်းတန်ခိုးလွန်စွာကြီးမားနေချိန်ဖြစ်၍ ဆရာတော်ကြီး၏ အနီးသို့ ဒကာမတစ်ဦးတစ်ယောက် ချဉ်းကပ်ခွင့်ရရန်မှာ ခဲယဉ်းလှပါသည်။ ဆရာတော်ကြီးကလည်း ဤသို့ ဒကာမတစ်ဦးလာ၍ လျှောက်ထားသည်ကို လက်ခံလိမ့်မည်မဟုတ်ပါ။

*၂ သာပေါင်းမြို့ မှန်စီကျောင်းဆရာတော်ကြီးဦးပဏ္ဍိတ၏ (၃၀၊ ၁၁၊ ၁၉၉၇)နေ့ မိန့်ကြားချက်ဖြစ်သည်။ လယ်တီဆရာ တော်ကြီးသီတင်းသုံးခဲ့သောနေရာကို ယခုတိုင် ဘာဝနာကုန်းဟုပင်ခေါ်တွင်လျက်ရှိပြီး သာပေါင်းမြို့သို့ သံလျက်ခုံဆိပ်မှ မြေလမ်းအတိုင်းဝင်သွားလျှင် သာပေါင်းမြို့အတွင်းမဝင်မီ လမ်းနံဘေး၌တည်ရှိပါသည်။ လယ်တီဆရာတော်ကြီး သီတင်းသုံးတော်မူသော ကမ္မဋ္ဌာန်းကျောင်းနေရာတွင် ၁၂၈၀–ပြည့်နှစ်၊ တပို့တွဲလ (အေဒီ ၁၉၂၉–ခုနှစ်၊ ဖေဖော်ဝါရီလ) အတွင်း ဝန်ထောက်ဦးအောင်မြတ်နှင့်ဇနီးဒေါ်မမရီတို့က ကမ္မဋ္ဌာန်းတိုက်သစ်တစ်ဆောင် တည်ဆောက်ခဲ့ကြပါသည်။ သိမ်တောင်ဆရာတော်၏ ကမ္မဋ္ဌာနနယဘာဝနာအလင်းပြကျမ်းသစ်။ ဟံသာသီရိပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ–၄၄)။



ရောဝတီတိုင်း
သာပေါင်းမြို့အနောက်ဘက်
ပိန္နဲကုန်းရွာ



လယ်တီဆရာတော်ကြီး
ဝါကပ်သီတင်းသုံးရာ
သာပေါင်းမြို့အနောက်ဘက်
ပိန္နဲကုန်းရွာအနီး
ဘာဝနာကုန်းတောရ



ဘာဝနာကုန်းတောရရှိ
စင်္ကြံလမ်း

လယ်တီဆရာတော်ကြီးသည် ဝိဝေကရလိုတော်မူ၍ နောက်ပါတပည့်သံဃာတစ်ပါးနှင့် ဝါကပ်တော်မူလျက်ရှိသော ဘာဝနာကုန်းသို့ ပုသိမ်မြို့ပေါ်မှဒါယကာ,ဒါယိကာမကြီးများ ရောက်ရှိလာကြပြီးလျှင် ထိုကမ္မဋ္ဌာန်းတဲကျောင်းအနီး အနောက်ဘက်၌ အုတ်စကြံလမ်း၊ ရေးကပင်ရှိခဲ့သော ကုံကော်ပင်ကြီးအနီး၌ ရေတွင်း–စသည်ပြုလုပ်ခဲ့ကြသည်။

**ပရမတ္ထဒီပနီကိုချေပသောကျမ်းစာများပေါ်ထွက်လာခြင်း**

သက္ကရာဇ် ၁၂၇၁–ခုနှစ်၊ ဝါတွင်းကာလအတွင်း လယ်တီဆရာတော်ကြီး၏ပရမတ္ထဒီပနီကျမ်းလာအချက်အလက်နှင့်အယူအဆတို့ကိုချေပထားသည့် အဘိဓမ္မာဆိုင်ရာ ဋီကာကျမ်းနှစ်ကျမ်းပေါ်ထွန်းလာခဲ့သည်။ ၁၂၇၁–ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၉၀၉–ခုနှစ်၊ ဇွန်လ)တွင် ရန်ကုန်မြို့၊ တိုက်နံပါတ်(၄)၊ ၂၁–လမ်း၊ ဘယဆေးတန်းရှိ သာသနာလင်္ကာရပုံနှိပ်တိုက်က ပထမအကြိမ်ပုံနှိပ်ထုတ်ဝေခဲ့သော စစ်ကိုင်းတိုင်း၊ ချောင်းဦးမြို့၊ မြို့သစ်ရပ်၊ မဟာဓမ္မာရုံဆရာတော်ဦးဒီပမာလာဆရာတော်ကြီး[*၁] ၏ ပရမတ္ထဝိသောဓနီဋီကာနှင့် ၁၂၇၁–ခုနှစ်၊ ဝါခေါင်လ (အေဒီ ၁၉၀၉–ခုနှစ်၊ ဇူလိုင်လ)တွင် ရန်ကုန်မြို့၊ တိုက်အမှတ်(၁၇/၁၈)၊ ၂၅–လမ်း၊ စာဆိုတန်းရှိ ပြည်ကြီးမဏ္ဍိုင်ပိဋကတ်ပုံနှိပ်တိုက်မှ ပထမအကြိမ်ပုံနှိပ်ထုတ်ဝေသော ပခန်းကြီးမြို့၊ နေရင်းရွာ တလိုင်းကုန်းဆရာတော်ကြီး ဦးဝိမလာဝံသာလင်္ကာရ[*၂] ၏ အင်္ကုရဋီကာတို့ပင်ဖြစ်သည်။ ဤနှစ်ကျမ်းမှာ ပါဠိဘာသာဖြင့်ရေးသားထားခြင်းဖြစ်ပြီး၊ ကျမ်းတတ်အကျော်ဆရာတော်ကြီးများ ရေးသားတော်မူကြသည့်ကျမ်းများဖြစ်သည့်အလျောက် အဆင့်အတန်းမြင့်မားလှကြပါသည်။

ချောင်းဦးမြို့၊ ဓမ္မာရုံဆရာတော်ကြီးဦးဒီပမာလာ၏ ပရမတ္ထဝိသောဓနီဋီကာတွင် လယ်တီဆရာတော်ကြီး၏ပရမတ္ထဒီပနီလာအဆိုများသည် မကောင်း၊ အရှင်သုမင်္ဂလသာမိ၏ ဋီကာကျော်လာအဆိုများသည်သာကောင်းပေသည်–ဟူ၍ ဋီကာကျော်ကျမ်းဘက်မှနေ၍ ထောက်ခံရေးသားခဲ့သည်။

---

*၁ ဓမ္မာရုံဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၁၅–ခုနှစ်၊ တန်ခူးလဆန်း ၅–ရက် (အေဒီ–၂၊ ဧပြီလ၊ ၁၈၅၄) တွင် ချောင်းဦးမြို့၌ဖွားမြင်တော်မူပါသည်။ ပခုက္ကူမြို့၊ ရေစကြိုဆရာတော်ကြီးထံ၌ ရဟန်း ၄–ဝါအရကပင် ပညာသင်ယူခဲ့သည်။ မိုးနံကုန်းအရှင်ဇေယန္တ မဟာထေရ်ထံတွင်လည်း နည်းခံဖူးသည်။ သက္ကရာဇ်–၁၂၈၇ (အေဒီ–၁၉၂၅)ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်ကိုလှူဒါန်းခြင်းခံရပြီး၊ သက္ကရာဇ် ၁၂၉၆–ခုနှစ်၊ ပြာသိုလဆုတ် ၁–ရက် (အေဒီ–၂၀၊ ဇန်နဝါရီလ၊ ၁၉၃၅) တွင် ရန်ကုန်မြို့၊ ကုက္ကိုင်းလမ်း၊ မဟာဓမ္မာရုံကျောင်းတွင် ပျံလွန်တော်မူပါသည်။ အရှင်ကေလာသ၏ မဟာဝိသုတာရာမနိကာယသာသနာဝင်။ ၁၉၇၀–ပြည့်နှစ်။ (စာမျက်နှာ ၃၃၃–၃၃၅)။

*၂ တလိုင်းကုန်းဆရာတော်ကြီးသည် သက္ကရာဇ်–၁၂၁၉ (အေဒီ–၁၈၅၇)ခုနှစ်တွင် ပခန်းကြီးမြို့အရှေ့ တလိုင်းကုန်းရွာတွင်ဖွားတော်မူသည်။ တိလောကာလင်္ကာရ သာသနဇောတမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်ရ ဝိစိတ္တာဆရာတော်ကြီး၏ တပည့်ရင်းဖြစ်သည်။ အင်္ကုရဋီကာအပါအဝင် ကျမ်း(၁၉)ကျမ်းကို ပြုစုတော်မူခဲ့သည်။ ခေတ်အခါအလျောက် စာတတ်အကျော်အဖြစ်ထင်ရှားခဲ့၍ 'စာတတ်နောက်ဆုံး တလိုင်းကုန်း'ဟု ဆိုထုံးရှိလေသည်။ ၁၂၉၀ (အေဒီ–၁၉၂၈)ခုနှစ်တွင် ပုသိမ်မြို့သို့ သာသနာရေးကိစ္စတစ်ခုဖြင့်ကြွခိုက် ရေချိုးမှား၍ ပျံလွန်သည်။ ပခန်းကျော်၏ ပခန်းကြီးအကြောင်းသိကောင်းစရာ။ ၁၉၉၇–ခုနှစ်။ (စာမျက်နှာ ၂၉၅–၃၀၀)။



မမွာရုံဆရာတော်ဦးဒီပမာလာ

မင်္ဂလာဂိုဏ်း။ စဉ့်လာတိုင်းသည့်။စစ်ကိုင်းဒိစတြိတ်။နယ်ဗိသိဗ္ဗ
ဟု။နိမိတ်ကြောင်းထူ¯။ဂုဏ်ပေါင်းမြူးသည့်။ချောင်းဦးမြို့
အောင်ဇေယျာတွင်။ဆောင်ဝေဖြာအမျိုးမျိုးဂုဏ်
နှင့်။ ပြောင်တေဇာ တန်းခိုးထုံသော။ မမွာရုံ
မဟာဗိဟာရန္တိ။ယာပထ အင်လေးသိဖြင့်။ မှုညီသ
တင်းသုံးတော်မူပေးသော၊ ပရိယတ်ပတိပတ်။ နှစ်ရပ်လုံ
လောက်။မုန်သောက်မာတင်။အာဇာနိဝင်ဖြစ်တော်မူသော။

## မမွာရုံဆရာတော်ဦးဒီပမာလာ။

ရေးသားတော်မူအပ်သော

# ပရမတ္ထဝိသောဓနီဋီကာသစ်ပါဌ်။

၁၂၇၁ ခု-ဝါဆိုလအတွင်းပုံနှိပ်သည်။

ပထမ နှိပ်ခြင်းစာအုပ်ရေ-၁၀၀၀။

နန်းမတော်ဆရာ-ဆရာတင်ကြီးကြပ်ပြင်ဆင်သည်။

ရန်ကုန်မြို့။

၂၁-လမ်း-ဘယဆေးတန်း-တိုက်နံပါတ်-၄

သာသနာ့လင်္ကာရပိဋကတ်ပုံနှိပ်တိုက်။



တလိုင်းကုန်းဆရာတော်

ပုခန်းကြီးမြို့-နေရင်းရွာ။

## တလိုင်းကုန်းဆရာတော်

ပြုစီရင်အပ်သော

# အင်္ဂုတ္တိုရဋီကာ

မည်သော

## သဂါထာဝဂ္ဂမဟာဋီကာသစ်ပါဌ်။

## ပါဠိဆရာဦးဖြေ

ကြီးကြပ်ပြင်ဆင်ပုံရိုက်သည်။

၁၂၇၁-ခုနှစ်။ဝါခေါင်လ။

{ပဌမနှိပ်-၂၀၀၀။}

ကျောင်းတကာ-ဦးမောင်-မူပိုင်ရိုက်ချွဲကြိုဖြူလုပ်ထားသည်။



ရန်ကုန်မြို့။

၂၅လမ်းစသိုထန်-တိုက်နံပါတ် ၁၇-၁၈။

ပြည်ကြီးမဏ္ဍိုင်-ပိဋကတ်ပုံနှိပ်တိုက်။

1909

သို့ရေးသားတော်မူပုံမှာ– 'ပရမတ္ထဒီပနိယံ ပန ဣမမတ္ထံ အသလ္လက္ခေတွာ တံ နသုန္ဒရန္တိ ဝစနံ ဝုတ္တံ။ ဝေမ္ပိဒံ သုန္ဒရမေဝ'–ဟုဖြစ်သည်။[*၁] အချို့သောနေရာတို့တွင် 'ပရမတ္ထဒီပနီ၌ (.........)ဆို၏။ ထိုအဆို မသင့်'ဟူသောသဘောဖြင့် 'ပရမတ္ထဒီပနိယံ ပန (သောပန သင်္ဂဟာသဒ္ဒေန ဒဿိတောတိ ဝုတ္တံ။) တံ နယုဇ္ဇတိ'–စသည်ဖော်ပြထားသည်။[*၂]

အချို့သောနေရာတို့တွင် 'ပရမတ္ထဒီပနီ၌ (.........) မယူရဟုဆို၏။ ထိုစကားတို့သည် သူ၏အယူမျှသာတည်း'–ဟူသောသဘောဖြင့် 'ပရမတ္ထဒီပနိယံ (ပန တ္ထောဝစရာ တ္ထောပရိယာ ပန္နာတိ ဝစနတော အဝစရတီတိ ပဒဿ ဥပ္ပဇ္ဇတီတိ အတ္တော န ဂဟေတဗ္ဗောတိ ဝုတ္တံ။) တံမတိမတ္တမေဝ'–စသည်ဖော်ပြထားသည်။[*၃] ရံခါ 'ပရမတ္ထဒီပနီ၏အဆိုကို လက်မခံထိုက်'–ဟူသောသဘောဖြင့် 'ပရမတ္ထဒီပနိယံ (ပန နပဟိပုဂ္ဂလေ ပဝတ္တော သောတာပတ္တိသဒ္ဒေါ ကတ္ထစိ ဒိဋ္ဌောတိ ဝုတ္တံ။) တံ သမ္ပဋိစ္ဆိတဗ္ဗံ နဟောတိ'–စသည်ဖော်ပြထားသည်။[*၄] ရံခါ၌ 'ပရမတ္ထဒီပနီကျမ်းအဆိုကို မယုံကြည်လေနှင့်'–ဟူသောသဘောဖြင့် 'တံ နပစ္စေတဗ္ဗံ' စသည်ဖြင့်လည်း ဖော်ပြထားပါသည်။[*၅]

တလိုင်းကုန်းဆရာတော်ကြီးဦးဝိမလ၏ အင်္ကုရဋီကာတွင် လယ်တီဆရာတော်ကြီးအား 'ကေစိ'[*၆] ထိုး၍ဖော်ပြထားခဲ့သည်။[*၇] အချို့သောနေရာ၌ ဋီကာကျော်အယူအဆနှင့်စပ်၍ လယ်တီဆရာတော်ကြီး၏ပယ်ဖျက်ပုံသည် ပယ်ပုံမကောင်း (တစ်နည်း) မကောင်းသဖြင့်ပယ်မြစ်ခြင်းတည်း' ဟူသောသဘောဖြင့် 'ကေသဥ္စိ ပဋိက္ခေပေါ ဒုပ္ပဋိက္ခေပေါ'–စသည်ဖြင့်လည်း ရေးသားခဲ့သည်။[*၈]

### ဆဆက္ကသုတ္တန်နိဿယသစ်

လယ်တီဆရာတော်ကြီးသည် မဇ္ဈိမနိကာယ်၊ ဥပရိပဏ္ဏာသပါဠိတော်လာ ဆဆက္ကသုတ္တန် (မ၊၃။၃၂၇။)ပါဠိတော်၏နိဿယသစ်ကို သက္ကရာဇ် ၁၂၇၁–ခုနှစ်၊ နတ်တော်လ (အေဒီ ၁၉၀၉–ခုနှစ်၊ ဒီဇင်ဘာလ) အတွင်း ရေးသားတော်မူပါသည်။ ဤနိဿယသစ်ရေးသားတော်မူရခြင်း

---

[*၁] ဦးဒီပမာလာ၏ ပရမတ္ထဝိသောဓနီဋီကာသစ်ပါဌ်။ ၁၂၇၁–ခုနှစ်။ (စာမျက်နှာ–၇)။

[*၂] ယင်း။ (စာမျက်နှာ–၈)။

[*၃] ယင်း။ (စာမျက်နှာ–၁၈)။

[*၄] ယင်း။ (စာမျက်နှာ–၃၉)။

[*၅] ယင်း။ (စာမျက်နှာ–၄၁)။

[*၆] စာပေအယူအဆကိုတင်ပြရာတွင် မိမိအောက်ငယ်သော (တစ်နည်း) မိမိအောက်စာပေအဆင့်နိမ့်သောသူ၏ အယူအဆကို ပြရာ၌ ထိုပုဂ္ဂိုလ်မျိုးကို 'ကေစိ'ဟူ၍ဖော်ပြထားလေ့ရှိသည်။ 'ကေ အညေည ဆရာပေ၊ အပရေမူ ကိုယ်ရည်တူ၊ ကေစိမှာမူ ကိုယ့်အောက်ယူ'။ နိယံ ၃၁–စောင်။ (စာမျက်နှာ–၁၁၈)။

[*၇] 'ကေစိ ပန......ဝဒန္တိ၊ တံ ဝီမံသိတွာ ဂဟေတဗ္ဗံ'–စသည်။ တလိုင်းကုန်းဆရာတော်၏ အင်္ကုရဋီကာ။ ၁၂၇၁–ခုနှစ်။ (စာမျက်နှာ–၄၄၁)။

[*၈] ယင်း။ (စာမျက်နှာ–၃)။

အကြောင်းမှာ ဆဆက္ကသုတ္တန်တရားတော်ကြီးသည် အာရုံခြောက်ပါး၊ ဒွါရခြောက်ပါး၊ ဝိညာဏ်ခြောက်ပါး၊ ဖဿခြောက်ပါး၊ ဝေဒနာခြောက်ပါး၊ တဏှာခြောက်ပါး– ဤခြောက်မျိုး ခြောက်လီသော ပရမတ္ထတရား(၃၆)ပါးတို့၏ဖြစ်ပုံကို ပဋိစ္စသမုပ္ပါဒ်နည်းအားဖြင့် ဟောကြားတော်မူအပ်သော ဒေသနာကြီးဖြစ်သည့်အတိုင်း ဗုဒ္ဓဘာသာဝင်လူရှင်အပေါင်းတို့သိထိုက်သော လိုရင်းတရားကြီးဖြစ်လေသည်။ ထိုဆဆက္ကသုတ္တန်နိဿယသစ်ကိုရေးသားပြီးစီးတော်မူလျှင် ဆရာသဲအမှူးရှိသော မုံရွာမြို့ အဘိဓမ္မာဝတ်အသင်းသူအသင်းသားများ ဘုရားဝတ်တက်ကြသည့်အခါ 'ပဋ္ဌာန်းပစ္စယနိဒ္ဒေသပါဠိနှင့်နိဿယ၊ ဓမ္မစကြာပါဠိနှင့်နိဿယ၊ အနတ္တလက္ခဏာသုတ်ပါဠိနှင့် နိဿယစသည်တို့နှင့်တွဲဖက်၍ရွတ်ဆိုကြ' –ဟူ၍လည်းအမိန့်တော်ရှိကာ မုံရွာသို့ ယင်းနိဿယ စာမူကိုပေးပို့တော်မူခဲ့ပါသည်။ *၁

**ပလိပ်ရောဂါကာကွယ်တော်မူပုံ**

သက္ကရာဇ် ၁၂၇၁–ခုနှစ်၊ တပို့တွဲလ (အေဒီ ၁၉၁၀–ခုနှစ်၊ ဇန်နဝါရီလ)ပ်တွင် စစ်ကိုင်းတိုင်း၊ ရွှာထောင်၊ ရွှေဘို၊ မုံရွာ၊ စိုင်ပြင်၊ ရွာသစ်ကြီး၊ ခင်လူး၊ အမရပူရ၊ မန္တလေး၊ မိတ္ထီလာစသော အထက်မြို့ရွာအသီးသီး၌ ပလိပ်ရောဂါကပ်ကြီး အကြီးအကျယ်ဖြစ်ပွားခဲ့လေသည်။ ဤသို့ ပလိပ်ရောဂါကပ်ကြီးဖြစ်ပေါ်ပြန့်ပွားလာသည်ကို လယ်တီဆရာတော်ကြီးသည် မနားမနေ အမြို့မြို့အရွာရွာသို့ တရစပ်ကြွရောက်၍ ငြိမ်းစဲအောင်စီမံဆောင်ရွက်တော်မူခဲ့ရပါသည်။ ထိုစဉ်က ဆရာတော်ကြီး၏ကပ်ဘေးဥပဒ်တို့ငြိမ်းစဲအောင် စီမံဆောင်ရွက်တော်မူခဲ့ပုံတို့ကို လယ်တီဦးဝဏ္ဏိတက အောက်ပါအတိုင်းမှတ်တမ်းတင်ရေးသားခဲ့ပါသည်။

၁၂၇၁–ခုနှစ်၊ တပို့တွဲလ (အေဒီ ၁၉၁၀–ခုနှစ်၊ ဇန်နဝါရီလ)*၂ တွင် စစ်ကိုင်းတစ်မြို့လုံး ပလိပ်ကပ်ရောဂါအကြီးအကျယ်ဖြစ်၍ ဒါယကာများလာ၍ပင့်ကြသည့်အတွက် စစ်ကိုင်းမြို့သို့ရောက်သောအခါ ဒါယကာများကို 'မင်းတို့မြို့ရှိသံဃာများ ပရိတ်ရွတ်ခြင်း,ကမ္မဝါဖတ်ခြင်းပြုလုပ်၍ အန္တရာယ်ကိုမခုခံကြဘူးလား'–ဟု မေးတော်မူ၏။

ဒါယကာများက 'ပရိတ်ကိုလည်းရွတ်ကြပါ၏။ ကမ္မဝါကိုလည်းဖတ်ကြပါ၏။ ဖတ်သော်လည်း အန္တရာယ်မပျောက်ငြိမ်းပါ'–ဟု လျှောက်ထားကြသည်။

'မင်းတို့ ပရိတ်ရွတ်,ကမ္မဝါဖတ်ရန် သံဃာများကိုပင့်လျှင် သတိထားရန်၊ နွားသားစားသောဘုန်းကြီးများမပါစေရ၊ နွားသားစားသောပါးစပ်ကြီးနှင့် 'သုဏာတုမေ ဘန္တေ သံဃော'–ဟုဖတ်လိုက်သည်နှင့်တစ်ပြိုင်နက် ပါးစပ်ကနွားသားနံ့ကြီး တစ်ခေါ်လောက်ရောက်အောင် ကင်းထောက်သွားသည်။ ထိုအခါ ဘီလူး, သဘက်တွေက နွားသားနံ့ကို မီးခိုးလျှောက်လိုက်ပြီးလာတတ်သည်'–ဟုမိန့်တော်မူ၏။

*၁ လယ်တီဆရာတော်ကြီး၏ ပဋ္ဌာန်းလက်စွဲသုံးဆောင်တွဲ။ ဒဂုန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၈–ခုနှစ်။ (စာမျက်နှာ–၃)။

*၂ ဆရာကြီးဦးလှတင်၏ လယ်တီမဟာထေရုပ္ပတ္တိကထာစာအုပ်။ (စာမျက်နှာ–၈၇)တွင် 'သက္ကရာဇ် ၁၂၇၂–ခုနှစ်၊ တပို့တွဲလ' ဟုဖော်ပြထားသော်လည်း၊ လယ်တီဆရာတော်ကြီး၏ ဝါဆိုစဉ်အရ '၁၂၇၁–ခုနှစ်၊ တပို့တွဲလ' ဟု ပြင်ဆင်ထားပါသည်။

ထိုအခါ ဒါယကာများက 'မှန်လှပါ၊ ဟုတ်ပါပေသည်ဘုရား၊ တပည့်တော်တို့ ပင့်သောသံဃာထဲက နွားသားစားသောဘုန်းကြီးနှစ်ပါး ယခု ပလိပ်ကပ်ထဲပါသွားပါပြီဘုရား'–ဟု လျှောက်ထားကြသည်။ ၎င်းနောက် အန္တရာယ်များကိုငြိမ်းစဲအောင် ဒါယကာများအား ဤသို့စီမံတော်မူ၏။

'အစိုးရများထံ အလိုရှိတိုင်းသေနတ်ပစ်ရန် အမိန့်ခံရမည်။ ကာလသား လူသန် လူမြန် ရသမျှစုရမည်။ သေနတ်အများမလို သေနတ်နှစ်လက်နှင့် အလိုရှိတိုင်း ပစ်ဖို့ရန် ကျည်ဆန်များများပါစေရမည်'–စသည်ဖြင့်စီမံတော်မူ၏။ အလုံးစုံပြည့်စုံသောအခါ ကာလသားများစွာတို့နှင့် တစ်မြို့လုံးလှည့်ပတ်၍ မဟာစက်ပရိတ်တော်ကြီး*၁ကို ကြွက်ကြွက်ဆူအောင်ဖတ်ရွတ်ကြရမည်။ ပြီးလျှင် လမ်းဆုံ, လမ်းမ, လမ်းလေးခွတွင် အမိန့်တော်ပြန်တမ်းကြီး*၂ ကို ကျယ်လောင်စွာ ခပ်တင်းတင်း ဖတ်ပြီး သေနတ်များစွာပစ်၍ သံပုံး,သံစည်,သံချောင်း,ကုလားတက်အများ တီးခေါက်စေကြရမည်–ဟု စီမံပြုလုပ်တော်မူ၏။

၎င်းအစီအမံအတိုင်းပြုလုပ်ချက်ကြောင့် ပလိပ်ကပ်အန္တရာယ်ကြီး ငြိမ်းစဲသွားလေ၏။ မြို့သူမြို့သားတို့သည် ဤသို့ အိပ်မက်မြင်မက်ကြ၏။ ကြီးစွာသောတပ်ကြီး တစ်တပ် မြောက်ရထားလမ်းအတိုင်း လျှောက်၍ထွက်သွားသည်ဟု အိပ်မက်မြင်မက်ကြ၏။ ၎င်းအိပ်မက်ကို ဆရာတော်ဘုရားကြီးအားလျှောက်ထားကြရာ ဆရာတော်ဘုရားကြီးက– ဒါဖြင့် မြောက်ရထားလမ်းဆုံ ရွာထောင်*၃ အတွက် စိုးရိမ်ရသေးသည်။ နားထောင်ကြစမ်း–ဟုမိန့်တော်မူသည်။

နောက် သုံးရက်,လေးရက်လောက်ရှိသောအခါ ရွာထောင်မှာ ပလိပ်ကပ်တွေဖြစ်နေသည်ဟုကြားရကြောင်း လျှောက်ထားကြသည်။ တစ်ရက်,နှစ်ရက်လောက်ရှိလျှင် ရွာထောင်ကဝန်ထောက်များ လာ၍ပင့်ကြသည်။ ပင့်သော်လည်း မလိုက်နိုင်။ စစ်ကိုင်းကဝန်ထောက်များကိုခေါ်၍– ငါဖြင့်မလိုက်နိုင်၊ မင်းတို့သာသွား၍ ကြီးကြပ်ပြီးရွတ်လိုက်ကြပါ၊ ယခု စစ်ကိုင်းမြို့ရှိ အန္တရာယ်ငြိမ်းစဲ၍သွားခြင်းမှာ မင်းတို့ ကာလသားတွေရွတ်၍ ငြိမ်းစဲသွားသည်၊ ငါကတော့ စီမံရုံ, လူရိပ်ပြရုံသာဖြစ်သည်၊ မင်းတို့သွား၍ရွတ်လိုက်ကြပါ၊ ငြိမ်းပါလိမ့်မည်၊ ငါ့မှာလည်း အောက်ပင်လယ်ကျွန်းမှာ အချိန်းအချက်ရက်ပေးထားသည်–ဟုမိန့်တော်မူ၏။

အမိန့်တော်အတိုင်း ကာလသားများနှင့် စစ်ကိုင်းနည်းအတိုင်းရွတ်ဖတ်၍ နှိမ်နင်းရာ တပ်ကြီးတစ်တပ် မြောက်မီးရထားလမ်းအတိုင်းထွက်သွားသည်ဟု အိပ်မက်

*၁ လယ်တီဦးပဒုမ၏ လယ်တီဝတ်ရွတ်စဉ်။ ဣန္ဒာသယပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၃–ခုနှစ်။ (စာမျက်နှာ ၆၅–၇၃) တွင်ရှုပါ။

*၂ လယ်တီဦးပဒုမ၏ လယ်တီဝတ်ရွတ်စဉ်။ ၁၉၇၃–ခုနှစ်။ (စာမျက်နှာ ၁၄၁–၁၄၅)တွင်ရှုပါ။

*၃ စစ်ကိုင်းတိုင်း စစ်ကိုင်းခရိုင် စစ်ကိုင်းမြို့နယ် ရွာထောင်ရပ်ကွက်ကိုဆိုလိုသည်။

မြင်မက်ပြီးလျှင် ရွာထောင်ပလိပ်ကပ်အန္တရာယ်ကြီးငြိမ်းစဲ၍သွားလေ၏။ အိပ်မက်အရ မြောက်မီးရထားလမ်းရှိ ရွှေဘိုမြို့ကြီးအတွက်စိုးရိမ်ရသေးသည်ဟု မိန့်တော်မူလျက် အောက်ပင်လယ်ကျွန်းသို့ကြွတော်မူ၏။ ပင်လယ်ကျွန်းသို့ရောက်၍ သတင်းကို နားထောင်သောအခါ ရွှေဘိုမြို့ကြီးအန္တရာယ်တွေဖြစ်နေသည်ဟု ကြားရလေ၏။ တရားဟောမှုစသောပြုလုပ်ရန် ကိစ္စများကိုပြုလုပ်ပြီးလျှင် အလျင်အမြန်ပြန်လာရာ မုံရွာမြို့သို့ရောက်တော်မူ၏။

၎င်းနောက် မကြာမီ ရွှေဘိုနယ် ခင်လူးက ဝန်ထောက်များပင့်သည့်အတွက် ရွှေဘိုမီးရထားလမ်းက ခင်လူးသို့ကြွတော်မူရာ ရွှေဘိုမြို့သို့ဆိုက်ရောက်လေ၏။ တစ်မြို့လုံးရှိ အစိုးရဘက်ဆိုင်ရာ လူကြီးလူကောင်းများနှင့် မြို့သူမြို့သားတို့သည် ဘူတာရုံက ကြိုဆိုစောင့်ဆိုင်းလျက်နေကြ၍ ခေတ္တဆင်းတော်မူပါဦးဟုလျှောက် ထားသဖြင့် ဆင်း၍အပူဇော်ခံတော်မူ၏။ မြို့သူမြို့သားတို့သည် 'တပည့်တော်တို့ မြို့မှာ အန္တရာယ်တွေအကြီးအကျယ်ဖြစ်နေပါသည်။ အန္တရာယ်အတွက် ရက်ပေး တော်မူပါဘုရား' –ဟုလျှောက်ထားကြလေ၏။

ထိုအခါ ဆရာတော်ဘုရားကြီးက– 'မင်းတို့က အန္တရာယ်အတွက်နှင့်လျှောက် ထားကြသည်။ ငါကလည်း ယခုပင်ဆင်း၍ ထိုင်လိုက်ဖို့ရန်ကောင်း၏။ သို့သော် ခင်လူးက ကြိုခန်း,ဆိုခန်းတွေကို အကြီးအကျယ်လုပ်၍ထားသည်ဟုကြားရသည်။ သည်မှာဆင်းနေခဲ့လျှင် ခင်လူးသူ,ခင်လူးသားများ ဝမ်းနည်းပက်လက်ဖြစ်နေတော့ မည်။ ငါရောက်အောင်သွားလိုက်ဦးမည်။ မင်းတို့ နောက်ကလိုက်ခဲ့ကြပေတော့။ ဟိုရောက်လျှင် ပင့်သူဝန်ထောက်များ, မြို့အုပ်များကို ငါပြောမည်' –ဟု မှာထားလျက် ရွှေဘိုမြို့မှထွက်တော်မူ၏။ ခင်လူးသို့ရောက်သောအခါ အတီးအမှုတ်အမျိုးမျိုးနှင့် အဆန်းတကြယ် ခမ်းနားကြီးကျယ်စွာကြိုဆိုကြလေ၏။ လုပဆန်းကြယ် ရှုချင်ဖွယ် ရှိသော တစ်ထောင့်ငါးရာကုန် တရားမဏ္ဍပ်ကြီးကိုလည်း ပြုလုပ်စီမံ၍ထားကြလေ၏။

နောက်မကြာမီ ရွှေဘိုမြို့ကြီးက ဝန်ထောက်များ, မြို့အုပ်များ အပင့်ရောက် လာကြ၏။ ထိုအခါ ဆရာတော်ဘုရားကြီးက ရွှေဘိုဝန်ထောက်များ, မြို့အုပ်များ ကိုမိန့်တော်မူသည်မှာ 'ကြိုခန်းဆိုခန်းနှင့်တကွ တရားဟောမဏ္ဍပ်ကြီးကိုစီမံ၍ ထားပုံမှာ မင်းတို့မြင်ကြသည့်အတိုင်းပင်ဖြစ်သည်။ ငါက အပင့်လာခဲ့ကြဆိုလို့ မင်းတို့လာကြပေတာပဲ၊ သို့သော် မင်းတို့ပင့်ရာကို ရတ်တရက် ခရီးရောက်မဆိုက် လိုက်သွားမည်ဆိုလျှင် သည်မြို့သူမြို့သားများ မျက်နှာမသာမယာဖြစ်ပြီးနေကြ လိမ့်မည်။ သို့အတွက် မင်းတို့ပြန်ကြပေတော့။ သုံးရက်လောက်တရားဟောပြီးမှ ငါလာခဲ့မည်' –ဟုမိန့်တော်မူ၏။ 'ဒါဖြင့်ဘုရား၊ အန္တရာယ်အတွက် ဘာများစီမံထားနှင့် ရပါ့မလဲ' –ဟုလျှောက်ထားသောအခါ 'လူသန်လူမြန် ကာလသားတစ်ရာလောက် လေးကိုယ်စီကိုယ်၎ အပြည့်အစုံနှင့်တကွ လောက်လေးဆံ ကျောက်ခဲ နှစ်တင်းသာ

ရှာထားနှင့်ကြရမည်။ မင်းတို့ရောက်လျှင်ရောက်ချင်း မောင်းကြေညာ စာကိုဖတ်၍ တစ်မြို့လုံးနှံ့အောင်မောင်းခတ်ရမည်။'

မောင်းကြော်ငြာကား–

လယ်တီဆရာတော်ကြီးကြွလာပြီ။ ငါတို့မြို့ရွာရှိ အန္တရာယ်များကို အတင်းနှင်ထုတ်တော်မူလိမ့်မည်။ မြို့သူမြို့သားများ ငြိမ်ဝပ်စွာနေထိုင်ကြရမည်။

ရွှေဘိုဝန်ထောက်များသည် ၎င်းမောင်းကြော်ငြာကိုယူ၍ ပြန်သွားကြပြီးလျှင် ရောက်လျှင်ရောက်ချင်း အသံကျယ်စွာနှင့် တစ်မြို့လုံးနှံ့အောင်ကြော်ငြာ၍ မောင်းခတ်သောအခါ အန္တရာယ်သူ့အန္တရာယ်သားတို့သည် ဆရာတော်ကြွလာပြီ၊ ငါတို့ကိုနှင်ထုတ်လိမ့်မည်၊ ငါတို့မနေဘူးဟု အိပ်မက်ပေးပြီးထွက်သွားကြသဖြင့် ရွှေဘိုမြို့ရှိ ပလိပ်ကပ်အန္တရာယ်ကြီး ငြိမ်းစဲလေ၏။

ဆရာတော်ဘုရားကြီးသည် ခင်လူး၌ သုံးရက်တရားဟောပြီးလျှင် ရွှေဘိုမြို့သို့ကြွတော်မူလာရာ မြို့သူမြို့သားတို့သည် ဘူတာရုံကကြိုဆိုကြပြီးလျှင် မောင်းခတ်ရုံမျှနှင့် အန္တရာယ်ငြိမ်းစဲကြောင်းကို လျှောက်ထားကြလေ၏။ ဘယ်ကိုထွက်သွားကြသနည်းဟုမေးတော်မူသောအခါ တောင်ကိုထွက်သွားကြသည်ဟု အိပ်မက်မြင်မက်ကြောင်း လျှောက်ထားကြသောအခါ– ဒါဖြင့် ရွာထောင်, စစ်ကိုင်း, အမရပူရ, မန္တလေးမြို့တွေအတွက်စိုးရိမ်ရသေးသည်–ဟုမိန့်တော်မူ၏။[*၁]

ရေဦးမြို့[*၂]

မုံရွာမြို့နှင့် (၅၇)မိုင်ခန့်ဝေးကွာသော ရေဦးမြို့သို့ သက္ကရာဇ်၁၂၇၂–ခုနှစ်၊ ကဆုန်လ (အေဒီ–၁၉၁၀၊ ဧပြီလ)တွင် ရေဦးမြို့နယ်ပိုင်ဝန်ထောက် ဦးစံမင်း၊ မြို့အုပ်မောင်ပေါ်ရုန်၊ တန်ဆည် မြို့အုပ် မောင်ဘိုးဆိပ်၊ ဒီပဲယင်းမြို့အုပ်ထိပ်တင်ဝနှင့် တမာတောမြို့အုပ် ထိပ်တင်ကြီးတို့၏ ပင့်လျှောက်ချက်အရ ကြွရောက်တော်မူခဲ့ပြီးလျှင် ပလိပ်ရောဂါကိုနှိမ်နင်းပေးတော်မူခဲ့ပါသည်။ ထို့နောက် ရေဦးမြို့တရားဟောမဏ္ဍပ်ကြီးတွင် ရှင်လူပရိသတ်တစ်ထောင်ကျော်တို့အား ငါးည တိုင်တိုင် အမိုက်ကြီးငါးပါး, အလင်းကြီးငါးပါးတို့ကို နှိုင်းယှဉ်ပြရှင်းလင်းဟောကြားအပ်သော အလင်းတရားတော်ကြီးကို ဟောကြားတော်မူခဲ့ပါသည်။ တရားပွဲပြီးလတ်သော် ယခုညတရားပွဲ၌ လွန်စွာမှကြားနာရခဲ့သော ထိုအလင်းတရားငါးပါးတို့ကို ရှင်လူအပေါင်းသူတော်ကောင်းတို့ အကျိုးငှာ ကျမ်းစာအဖြစ်ထုတ်ဖော်ရေးသားတော်မူပါရန် နယ်ပိုင်ဝန်ထောက်ဦးစံမင်းအမှူးရှိသော ဒါယကာတစ်စုတို့က တောင်းပန်လျှောက်ထားခဲ့ကြပါသည်။[*၃] ထိုအခါ ဆရာတော်ကြီးက

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ ၈၇–၉၁)။

*၂ စစ်ကိုင်းတိုင်း ရွှေဘိုခရိုင် ရေဦးမြို့နယ်တွင်တည်ရှိသည်။

*၃ လယ်တီဆရာတော်ကြီး၏ အလင်းကျမ်း။ လယ်တီဒီပနီပေါင်းချုပ်၊ ပထမတွဲ။ ဗုဒ္ဓသာသနာအဖွဲ့၊ ရန်ကုန်မြို့။ ၁၉၆၆–ခုနှစ်။ (စာမျက်နှာ–၃၅၇)။

'ယခုအခါသည် ပလိပ်ကပ်ရောဂါကိုနှိမ်နင်းဆဲအခါဖြစ်ပြီး ခရီးလမ်း၌ဖြစ်သဖြင့် နောင် အခါ သင့်သည့်အချိန်တွင် သင်တို့တောင်းပန်သော အလင်းကျမ်းကြီးကို ရေးသားမည်'ဟူ၍ ကတိထားတော်မူခဲ့ပါသည်။

ဦးဝါယမလူထွက်ခြင်း

မြန်မာနိုင်ငံအထက်ပိုင်းဒေသ၌ လယ်တီဆရာတော်ကြီး ပလိပ်ကပ်ရောဂါဘေးကို ငြိမ်းသတ်နေတော်မူစဉ်အခါ မြန်မာနိုင်ငံအောက်ပိုင်း ရန်ကုန်မြို့၌ လယ်တီဆရာတော်ကြီးကိုယ်စား ဓမ္မသဝနဗုဒ္ဓသာသနာပြုအသင်း၏ သာသနာပြုလုပ်ငန်းကိစ္စအဝဝကိုတာဝန်ခံကာ ကြီးကြပ်ဆောင်ရွက်လျက်ရှိသော ဦးဝါယမကိုယ်တော်သည် အသင်းပိုင်ဓမ္မဒေသနာတရားသတင်းစာနှင့် ဗုဒ္ဓဘာသာသာသနာပြုပုံနှိပ်တိုက်တို့ကို အချိန်ပြည့်ကြီးကြပ်လုပ်ဆောင်နိုင်ရန် ဟူသောအကြောင်းပြချက်ဖြင့် 'ဆရာမြို့' အမည်ပြောင်းလူဝတ်လဲခဲ့ပါသည်။*၁ လူဝတ်နှင့်ဖြစ်လာ သောအခါ ဆရာမြို့၏ရုပ်ဆင်းသွင်မူမှာ–

'ဆရာမြို့သည် အရပ်ခြောက်ပေတန်း၊ ကိုယ်လုံးကိုယ်ထည်လည်းရှိသဖြင့် ခန့်လှသည်တွင် 'ကိုင်ဇာ'နှုတ်ခမ်းမွေးကြီးနှင့် ကျွဲကော်ကိုင်းမျက်မှန်ကြီးက ပို၍ပင်ခန့်အောင်ဖန်တီးပေး၏။ ခေါင်းတုံးပင်ဖြစ်သော်လည်း ခေါင်းတုံးအတိုင်းသူမနေ၊ ကျက်သရေရှိလှသော အဖြူခံကျောက်ခက်ပန်းနှင့်ဓာတ်ရိုက်ပုဝါမျိုး*၂ ကို မြင်ကွန်းမင်းသားကြီးပေါင်း, ပေါင်းထား၏။ ကဆုန်လပြည့်လို ဘုရား,တရားပွဲတော်မျိုး အခမ်းအနားမျိုးနှင့်ကြုံလျှင် သာသနာရောင်အဝါအောက်ခံ ဇီးကွက်မျက်လုံးပုံရိုက် ခေါင်းပေါင်းမျိုးကိုပေါင်း၏။ ကြွေရောင်တိုက်ကော်လာ, ကြွေရောင်တိုက်လက်ဖျားနှင့် ရုပ်အင်္ကျီမျိုးကိုဝတ်သောအခါ ဝတ်၏။ အပေါ်အင်္ကျီမှာ ပိတ်ဖြူ သို့မဟုတ် ရာသီအလိုက် သက္ကလပ်ရင်ဖုံး, ပုဆိုးတောင်ရှည်နှင့် ရှူးဖိနပ်အမြဲစီးလေ့ရှိ၏။*၃

ဦးဝါယမ လူဝတ်လဲပြီးဖြစ်သော်လည်း ဓမ္မသဝနအသင်းဝင်လူကြီးများမှာ ဦးဝါယမ၏ ပညာဂုဏ်ကိုလေးစားကြသည်ဖြစ်၍ နဂိုကြည်ညိုရင်းကိုလက်မလွှတ်နိုင်ဘဲ အသွင်တစ်မျိုးဖြစ်သော ဆရာကြီးဦးမြို့ဘဝမှာပင် ဆရာသမားအဖြစ် အလေးထားဆည်းကပ်ခဲ့ကြပါသည်။

ဦးဝါယမသည် ဤသို့လူဝတ်လဲပြီးချိန်တွင် သူတစ်ပါးမကြံစည်နိုင်သောအကြံအစည်မျိုးကို ကြံစည်တတ်သူပီပီ ရံခါရံခါ လယ်တီဆရာတော်ကြီးသည် တရားပွဲများတွင် မြန်မာလူမျိုးများ

---

*၁ ဦးဝါယမ လူဝတ်လဲပြီးမကြာမီ ရဟန်းဘဝကနေခဲ့သော ဗဟန်းရပ် ကြားတောရလမ်းရှိ ဒေါ်စန္ဒာဇရပ်ရှင် သီလရှင် ဒေါ်စန္ဒာနှင့်အကြောင်းပါလေသည်။ ထိုခေတ်က ဦးဝါယမ၊ ဒေါ်စန္ဒာ–စသူတို့နှင့် ဓမ္မသဝနအသင်းအကြောင်းတို့ကို စောင်းချိတ်၍ စာရေးဆရာကြီးဦးလတ်က စပယ်ပင်ဝတ္ထု၌ ရေးသားဖူးလေသည်။ ဦးလတ်၏စပယ်ပင်ဝတ္ထု။ သွေးသောက်စာအုပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ ၉၁–၁၁၈)။ တိုက်စိုး၏ဦးလတ်။ စာဆိုနှင့်သုတေသီ။ ပုဂံစာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၆၉) လည်းရှု။

*၂ ဆေးဆိုးပန်းရိုက်ကို ဆိုလိုသည်။

*၃ မောင်တင်မောင်၏ လူထုအလိုမလိုက်သောသတင်းစာများ။ (ဆောင်းပါး)။ စာပေဗိမာန်မဂ္ဂဇင်း။ အတွဲ–၁၊ အမှတ်–၂။ (စာမျက်နှာ–၆၁)။

ဖတ်ရှုရန်အတွက် မြန်မာလို ပိဋကတ်သုံးပုံမြန်မာပြန်များပေါ်ထွက်ဖို့အရေး မိန့်ကြားတော်မူလေ့ရှိသည်ကို နားစွဲနေသည့်အတိုင်း ယခုအခါ ပိဋကတ်မြန်မာပြန်လုပ်ငန်းကိုလုပ်ကိုင်ရလျှင် သင့်လျော်ပါမည်လော–ဟူ၍လည်း ကြံရွယ်မျှော်မှန်းခဲ့ပြန်ပါသည်။*၁

အတိသုန္ဒရကျမ်း

လယ်တီဆရာတော်ကြီး၏ပရမတ္ထဒီပနီကျမ်းပေါ်ထွက်ပြီး (၁၀)နှစ်အကြာ သက္ကရာဇ်–၁၂၇၂(အေဒီ–၁၉၁၀)ခုနှစ်အတွင်း ပရမတ္ထဒီပနီကျမ်းလာအချက်အလက်နှင့် အယူအဆတို့ကို ဖြေရှင်းချေပထားသည့် ဦးနတ်သား*၂ ဘွဲ့ခံပုဂ္ဂိုလ် ပြုစုရေးသားသော အတိသုန္ဒရကျမ်း ပေါ်ထွက်လာပါသည်။ ဤကျမ်းကို အမှတ်–၄၊ ၂၁–လမ်း၊ ရန်ကုန်မြို့၌တည်ရှိသည့် သာသနာလင်္ကာရ ပိဋကတ်က ရိုက်နှိပ်ထုတ်ဝေခဲ့ပါသည်။

အတိသုန္ဒရကျမ်းပြုဆရာ ဦးနတ်သားက ယင်း၏ကျမ်းရှင်းလင်းချက်တစ်နေရာ (ဘုံပိုင်း) တွင်– 'ဋီကာကျော်စကားသည် ဓမ္မပဒပါဠိ,အဋ္ဌကထာတို့နှင့် တညီတညွတ်တည်းဖြစ်သောကြောင့် အနှစ်သာရအတိဖြစ်သည်ဟု ပေါက္ကံ(ပုဂံ)ကစ၍ အဆက်ဆက်ကုန်သော တေပိဋကဓရပုဂ္ဂိုလ်ကျော်တို့သည် အတည်ပြဋ္ဌာန်းချက်ပြုတော်မူကြလေကုန်၏။ ထိုသို့ ပြဋ္ဌာန်းချက်ပြုလုပ်တော်မူသောကြောင့်လည်း ကျွန်ုပ်တို့တစ်စု သင်ကြားတတ်မြောက်ကြရပါသည်'*၃–စသည် စသည်ဖြင့် ဋီကာကျော်ဆရာဘက်မှ များစွာခုခံဖြေရှင်းရေးသားထားခဲ့ပါသည်။ ဤကျမ်းတွင် မြန်မာစကားဖြင့်ရှင်းလင်းရေးသားထားသဖြင့် ပါဠိမကျွမ်းကျင်သောရှင်လူတို့ ဖတ်ရှုရန်လွယ်ကူကြလေသည်။

ဤအတိသုန္ဒရကျမ်းတွင် လွန်ခဲ့သောနှစ်ကပေါ်ထွက်ခဲ့သော အင်္ဂုရဋီကာမာကဲ့သို့ လယ်တီဆရာတော်ကြီးအား ကိုယ့်အောက်ပညာနိမ့်သူအဖြစ် 'ကေစိ'ထိုးကာရေးသားခဲ့သည်။*၄ ထို့ပြင် လယ်တီဆရာတော်ကြီး၏ပရမတ္ထဒီပနီကို 'ဋီကာသစ်'၊ လယ်တီဆရာတော်ကြီးကိုလည်း 'ဋီကာသစ်ဆရာ'စသည်ဖြင့်ခေါ်ဝေါ်ခဲ့ပြီး၊ များစွာအပြစ်ဝေဖန်ခဲ့လေသည်။ အချို့ကိုဖော်ပြရသော်–ယင်းကျမ်း စာမျက်နှာ(၇)တွင် 'ဋီကာသစ်ဆရာသည် လိပ်ခဲတင်းလင်းဆိုမိ၍ ပါဠိအဋ္ဌကထာများသို့မသက်ဝင်'–ဟူ၍လည်းကောင်း၊ ယင်းကျမ်း စာမျက်နှာ(၇)မှာပင် 'ထိုဋီကာသစ်စကားသည် ရှေ့နောက်မညီ ပျက်ကွက်လေသည်'ဟူ၍လည်းကောင်း၊ ယင်းကျမ်း စာမျက်နှာ(၁၀)

---

*၁ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၃၇၁)။

*၂ ဦးနတ်သားသည် ဒွါရသာသနာပိုင် အရှင်ဥက္ကံ့ဝံသ မာလာဆရာတော်ဘုရားကြီး၏ တပည့်ရင်းတစ်ဦးဖြစ်သည်။ ရဟန်းဝတ်စဉ်ကဘွဲ့မှာ အရှင်နာဂိန္ဒဖြစ်သည်။ လူဝတ်၌ ဦးထွန်းပေအမည်ဖြင့် တိရစ္ဆာန်ဆေးကုသောဆရာပြုလုပ်ခဲ့သည်။ မစ္ဆတာရစ်ပလေထုတ်ဝေသော ဟံသာဝတီမဂ္ဂဇင်း၌ ဦးနတ်သား–ဟူသော ကလောင်အမည်ဖြင့် ဆောင်းပါးများရေးသားခဲ့သည်။ အရှင်ကေလာသ၏ သဂြိုဟ်မဟာဋီကာသစ်မြန်မာပြန်၊ ပထမတွဲ။ ၁၉၉၂–ခုနှစ်။ (စာမျက်နှာ–ခဲ)။

*၃ ဦးနတ်သား၏ အတိသုန္ဒရကျမ်း။ သာသနာလင်္ကာရပိဋကတ်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၁၀–ပြည့်နှစ်။ (စာမျက်နှာ–၂၄၁)။

*၄ ယင်း။ (စာမျက်နှာ–၃)။

တွင် 'ဋီကာသစ်ပြုဆိုသောစကားသည် ပိဋကတ်သုံးပုံသို့မသက်ဝင်၊ လောကီစကားမျှသာဖြစ်၏' ဟူ၍လည်းကောင်း၊ ယင်းကျမ်း စာမျက်နှာ(၁၁)တွင် 'ဋီကာသစ်ပြုဆိုသောစကားသည် တစ်လုံးမျှမဟုတ်နိုင်သာလျှင်တည်း' ဟူ၍လည်းကောင်း၊ ယင်းကျမ်း စာမျက်နှာ(၁၈)တွင် 'ဋီကာသစ်စကားကို အမှားဟုသာလျှင်မှတ်' ဟူ၍လည်းကောင်း၊ ယင်းကျမ်း စာမျက်နှာ(၁၉) တွင် 'သေသေချာချာစစ်ဆေးတတ်သော ပညာရှိတို့ကမြင်က ပြုံးတော်မူကြလိမ့်မည်တည်း' ဟူ၍လည်းကောင်း အမျိုးမျိုးအဖုံဖုံရေးသားထားခဲ့ပါသည်။

## ဦးပဒုမရောက်ရှိခြင်း

သက္ကရာဇ်–၁၂၇၂ (အေဒီ–၁၉၁၀)ခုနှစ်တွင် မုံရွာမြို့ လယ်တီတိုက်၌သီတင်းသုံးနေတော်မူသော လယ်တီဆရာတော်ကြီး၏ခြေတော်ရင်းသို့ ဦးပဒုမ*၁ ဘွဲ့မည်ရှိသော ရဟန်းသိက္ခာငါးဝါရပြီးဖြစ်သော ပဥ္စင်းပျိုတစ်ပါးရောက်ရှိလာလေသည်။ ဦးပဒုမသည် လယ်တီဆရာတော်ကြီး ပို့ချဆဲဖြစ်သော အဘိဓမ္မာညဝါတို့ကိုသင်ယူခဲ့ပါသည်။ ဦးပဒုမ၏မူလပင်ကိုယ်အသံတော်ဓာတ်မှာ ဆွဲဆောင်မှုရှိလှ၍ ကြားရသူ၌ နားအရသာကိုအေးမြချိုသာစေပါသည်။ စာပေရေးသားရာ၌လည်း သိမ်မွေ့၍ နက်နဲစွာတွေးကြံ၍ရေးဖွဲ့လေ့ရှိတတ်ရာ အရေး,အဟောစွယ်စုံရပုဂ္ဂိုလ်ဖြစ်၍ လယ်တီဆရာတော်ကြီးက အနီးကပ်လက်ရုံးတပည့်ကြီးအဖြစ် နောက်တော်ပါးက မကွဲမကွာခေါ်၍ သွားတော်မူလေ့ရှိပါသည်။*၂

## ပဥ္စစတ္တာလီသမဝါကပ်တော်မူခြင်း

သက္ကရာဇ် ၁၂၇၂–ခုနှစ်၊ ဝါတွင်း (အေဒီ ၁၉၁၀–ပြည့်နှစ်၊ ဇူလိုင်လ)ကာလသို့ရောက်လျှင် လယ်တီဆရာတော်ကြီးသည် မုံရွာမြို့လယ်တီတောရအတွင်း အမိန့်တော်ရရှေ့နေမောင်ကြော့ မောင်စံလင်းအမှူးရှိသော မြို့သူမြို့သားများဆောက်လုပ်အပ်သော မနောရမ္မံစကြံကျောင်းတော်ကြီး၌ (၄၅)ကြိမ်မြောက် ပဥ္စစတ္တာလီသမဝါကို ကပ်တော်မူခဲ့ပါသည်။

## နိယာမဒီပနီ

လယ်တီဆရာတော်ကြီး မုံရွာမြို့ လယ်တီတောရ၌ဝါကပ်ဆဲဖြစ်သော ၁၂၇၂–ခုနှစ်၊ ဒုတိယဝါဆိုလပြည့်ကျော် ၆–ရက် (အေဒီ–၂၇၊ ဇူလိုင်လ၊ ၁၉၁၀–ပြည့်နှစ်) တွင် ရန်ကုန်မြို့ ဓမ္မသဝနအသင်းကြီး၏ဥက္ကဋ္ဌ အငြိမ်းစားဝန်ထောက်ကြီးဦးရွှေကိုဝ်၊ ယင်းအသင်းသားတစ်စုတို့က 'နိယာမ

*၁ နောင်အခါ စစ်ကိုင်းတောင်ရိုး ဓမ္မပုတိချောင်တည် ဓမ္မကထိကအကျော် ဆရာတော်ဦးပဒုမအဖြစ် ထင်ရှားခဲ့သည်။ ၁၂၄၇ (အေဒီ–၁၈၈၅)ခုနှစ် မုံရွာခရိုင် မုံရွာမြို့နယ် အောင်သာရွာဇာတိဖြစ်သည်။ အောင်သာသည် ရှေးက အလုံမြို့နယ်အတွင်းနှင့် သာစည်အုပ်စုတွင်ပါရှိသည်။ အသက် ၁၃–နှစ်အရွယ်တွင် ပထမရွှေကျင်ဆရာတော်ကြီးထံ ရှေးဦးရောက်ရှိပြီးနောက် မုံရွာမြို့ ဇောင်းကြမ်းပင်ဒုတိယဆရာတော် ဦးဖြဟ္မသိရိ၊ ပခုက္ကူမြို့ ရေစကြိုဆရာတော်ကြီးဦးဂန္ထသာရ၊ မန္တလေးမြို့ ချမ်းသာကြီးဆရာတော်ဦးပဏ္ဍဝံသတို့ထံတော်၌ ပညာဆည်းပူးဖူးလေသည်။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ ၄၃၅–၄၃၇)။

*၂ ဦးပဒုမ၏ အရိယသစ္စဒီပနီကျမ်း။ ဂန္ထဝင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၈၇–ခုနှစ်။ (စာမျက်နှာ–၁၁၊ ၂၂၊ ၂၇)။

တရားငါးပါး၏သဘောအဓိပ္ပာယ်များကို ကွဲကွဲပြားပြားသိမှတ်လိုကြပါကြောင်း' လျှောက်ထား တောင်းပန်စာရေးသားဆက်ကပ်ကြသည်။ ထိုအခါ လယ်တီဆရာတော်ကြီးက ဦးရွှေကိုဝ်ထံသို့–

'အမိန့်ရှိလိုက်သည်–

ရန်ကုန်မြို့ ဓမ္မသဝနအသင်းကြီး၏ဥက္ကဋ္ဌဖြစ်သူ မောင်ရွှေကိုဝ်၊ မင်းတို့ လျှောက်လွှာမှာ နိယာမတရားငါးပါး၏ မကျဉ်းမကျယ်အဓိပ္ပာယ်ကို သိလိုကြသည်ဟု ပါရှိပေ၏။ သို့ရာတွင် ဗုဒ္ဓဘာသာမှတစ်ပါး အခြားဘာသာဆရာများနှင့်ပြောဆိုကြ ရာမှာဖြစ်လာသော 'နိယာမ'စကားဖြစ်ကြောင်းပါရှိသည်နှင့် 'နိယာမ'တရားငါးပါး နှင့်ပင် လောကသုံးပါးလုံးပြီးစီးနိုင်ရန် အတန်ကြီးချဲ့၍ရေးသားလိုက်ရပေသည်'*၁–

ဟူသော အမှာစကားဖြင့် (၁) ဗီဇနိယာမ၊ (၂) ဥတုနိယာမ၊ (၃) ကမ္မနိယာမ၊ (၄) ဓမ္မ နိယာမနှင့် (၅) စိတ္တနိယာမခေါ် နိယာမငါးပါးတရားတို့ကို ရှင်းလင်းရေးသားတော်မူခဲ့ပါသည်။

သို့ရေးသားတော်မူရာတွင် နိယာမတရားနှင့်ဖန်ဆင်းရှင်ထာဝရ*၂ ဩကာသလောကကြီး နှင့်နိယာမတရား၊ ဩကာသလောက, သင်္ခါရလောက, သတ္တလောက–ဟူသော လောက သုံးပါးနှင့်နိယာမတရား၊ သမုတိသစ္စာနှင့်ပရမတ္ထသစ္စာ၊ ရုပ်နှင့်နာမ်ဓာတ်ခွဲပုံ–စသည် အခန်းကဏ္ဍ များခွဲဝေ၍ မြတ်စွာဘုရားရှင်၏သာသနာတော်ဝယ် ဗုဒ္ဓဘာသာဝင်ပုဂ္ဂိုလ်မှန်သမျှ သိသင့်သိထိုက် သော နိယာမငါးပါးတရားတို့ကို ထင်ထင်လင်းလင်းသိမြင်နိုင်စေခြင်းငှာ ရေးသားတော်မူခဲ့ရာ သက္ကရာဇ်၁၂၇၂–ခုနှစ်၊ ဝါခေါင်လပြည့်(အေဒီ–၂၀၊ ဩဂုတ်လ၊ ၁၉၁၀–ပြည့်နှစ်)တွင် ရေးသား ပြီးစီးတော်မူခဲ့ပါသည်။*၃

ဇာတ်မင်းသားဖိုးစိန် ဆည်းကပ်လာခြင်း

မုံရွာမြို့တွင် ထိုအချိန်ထိုအခါက အောင်ဗလ–ဖိုးစိန် ဟူသောအတွဲဖြင့် နာမည်ကြီးခဲ့သူ ဇာတ်မင်းသားဖိုးစိန်*၄ သည် မုံရွာမြို့သို့ ဇာတ်က,လာရင်း ဘာသာသာသနာ၌လိုလားစိတ်ရှိသူ ပီပီ မုံရွာမြို့ လယ်တီတောရတွင်သီတင်းသုံးနေတော်မူသော လယ်တီဆရာတော်ကြီး၏ခြေတော် ရင်းသို့ ဝပ်စင်းဦးခိုက်ခဲ့လေသည်။

---

*၁ လယ်တီဆရာတော်ကြီး၏ နိယာမဒီပနီ။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၈၈–ခုနှစ်။ (စာမျက်နှာ–၇၅)။

*၂ ခရစ်ယာန်ဘာသာရှိ ထာဝရဘုရားရှင်ကိုဆိုလိုပါသည်။

*၃ လယ်တီဆရာတော်ကြီး၏ နိယာမဒီပနီ။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၈၈–ခုနှစ်။ (စာမျက်နှာ–၃)။

*၄ နောင်အခါ ဝဏ္ဏကျော်ထင်ဇာတ်ဆရာကြီးဦးဖိုးစိန်(အေဒီ ၁၈၈၂–၁၉၅၂) ဖြစ်ပါသည်။ ဦးဖိုးစိန်မှာ သက္ကရာဇ်–၁၂၄၄ (အေဒီ–၁၈၈၂)ခုနှစ်တွင်ဖွား၍၊ အသက်(၁၂)နှစ်အရွယ်ကပင် သဘင်လောကထဲရောက်ရှိခဲ့ပါသည်။ ၁၂၇၄ (အေဒီ–၁၉၁၂)ခုနှစ်တွင်ကိုယ်ပိုင်ဇာတ်ထောင်နိုင်ခဲ့သည်။ လူထုဒေါ်အမာ၏ အောင်ဗလ ဖိုးစိန် စိန်ကတုံး။ လူထုစာအုပ်တိုက်၊ မန္တလေးမြို့။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၃၅၁၊ ၃၅၂၊ ၃၅၆)။ ဤသို့ ကိုယ်ပိုင်ဇာတ်မထောင်မီအချိန်မှာ လယ်တီဆရာတော် ကြီးအား စတင်ဆည်းကပ်ကျွမ်းဝင်ခဲ့ခြင်းဖြစ်ကြောင်း ဦးဖိုးစိန်ကိုယ်တိုင် ဆရာဦးသိန်းဖေမြင့်အား ပြောပြခဲ့သည်။ သိန်းဖေမြင့်၏ ဇာတ်ဆရာ ဦးဖိုးစိန်။ ၁၉၅၃–ခုနှစ်။ (စာမျက်နှာ–၁၁)။



ဇာတ်မင်းသားဦးဖိုးစိန်

လယ်တီဆရာတော်ကြီး၏ဩဝါဒအတိုင်း ဇာတ်ဆရာဦးဖိုးစိန် သုဝဏ္ဏသာမဇာတ် ကပြနေပုံ

ဇာတ်မင်းသားဖိုးစိန်သည် လယ်တီဆရာတော်ကြီးကိုဖူးတွေ့ခွင့်ရသောအခါ၌ မိမိရင်တွင်း လိပ်ခဲတင်းလင်းဖြစ်နေသော အချက်အလက်အချို့ကိုမေးလျှောက်ခဲ့သည်။ ထိုအချက်မှာ အခြား မဟုတ်ဘဲ 'ယခုအခါ၌ မိမိသည်ဝမ်းရေးဝမ်းစာအတွက် ဒဏ္ဍာရီထိုးဇာတ်များ[*၁] က,ပြနေခြင်း ကြောင့် မိမိသေလျှင် ပဟာသရဲသို့ကျပါမည်လား'ဟု မေးလျှောက်ခြင်းဖြစ်သည်။[*၂] ထိုအခါ လယ်တီဆရာတော်ကြီးက 'ဖိုးစိန်၊ မင်းဟာ သုံးဆယ့်တစ်ဘုံကို ကြိုးတပ်ဆွဲငင်နေတဲ့သူပဲ' မိန့်ဆိုပြီး၊ 'ဤသို့ မဟုတ်မဟပ်ထိုးဇာတ်များကိုက,ပြနေမည့်အစား ဘုရားဟော ၅၅၀–ဇာတ် တော်များကိုက,ပြခြင်းဖြင့် ဇာတ်ကရင်း ကုသိုလ်အရယူရန်အကြံပေးတော်မူပါသည်။[*၃]

ဇာတ်မင်းသားဖိုးစိန်မှာ ဒဏ္ဍာရီထိုးဇာတ်များက,နေရင်း သတိသံဝေဂလွန်စွာရနေချိန်ဖြစ်၍ အထက်ပါမေးခွန်းတို့ကို အရေးတကြီးမေးလျှောက်ရခြင်းဖြစ်သည်။ အကြောင်းမှာ– တစ်ခါက ထိလပ်–ပိုးအူဇာတ်ထုပ်က,ရင်း ထိုဇာတ်၌ ကိုယ်ပျောက်အတတ်ကိုလိုချင်လျှင် ကိုယ်ဝန်အရင့်အမာ ဖြစ်နေသော မယား၏ဝမ်းကိုဓားဖြင့်ခွဲကာ ဝမ်းထဲမှအရှင်လတ်လတ်ကလေးငယ်ကို ထုတ်ယူပြီး မီးကင်စားရမည့်ဇာတ်ဝင်ခန်းတစ်ခန်းပါရှိခဲ့သည်။ ထိုစဉ်က ဦးဖိုးစိန် က,ပြသည်မှာသရုပ်ပါလွန်း၍ မကြာမီမှာပင် သန်လျင်မြို့နယ် မှော်ဝန်းကျောက်တန်းရွာက ဆရာအစ်ဆိုသူသည် မယားကို ဖိုက်ခွဲကာ သားငယ်ကိုထုတ်ယူ၍ မီးကင်စားသောအမှုဖြင့် ဂတ်သို့ရောက်သွားခဲ့ရသည်။ ဤသို့ သောဖြစ်ရပ်ကြောင့် ဇာတ်မင်းသားဖိုးစိန်မှာ သူ့ဇာတ်သူ မက,ရဲအောင်ဖြစ်ခဲ့ရသည်။[*၄]

ထို့ပြင် ဇာတ်မင်းသားဖိုးစိန်သည် ငယ်စဉ်က ငါးသိုင်းချောင်း ဒွါရဂိုဏ်းဝင်ဆရာတော် ဦးဥက္ကံသကျောင်းတွင် စာသင်ကြားခဲ့ဖူးရာ၊ လယ်တီဆရာတော်ကြီးက 'ဟေ၊ မင်းက ဒွါရ ကျောင်းထွက်ကိုးကွဲ့'ဟုဆိုတော်မူခဲ့သည်။ ဇာတ်မင်းသားဖိုးစိန်က 'မှန်လှပါဘုရား၊ တပည့်တော် မှာ ကံ,ဒွါရ မခွဲခြားဘဲ သာသနာတော်ကိုဆည်းကပ်ကိုးကွယ်ပါတယ်ဘုရား၊ တရားတော်များ ကိုလည်း နာယူပါတယ်ဘုရား'ဟု လျှောက်ထားခဲ့ပါသည်။[*၅]

---

[*၁] ဖိုးစိန် က,ပြခဲ့သော ထိုးဇာတ်များတွင် 'လက်ခြောက်ဖက်ကံသဒေဝီ၊ ချင်းဖဝေး၊ ချင်းရွှေလုံး၊ ထိလပ်ပိုးအူ၊ သာစု မယ်သဒ်ါရ၊ မင်းသိန်စိန်သောက်' စသည်တို့ဖြစ်ကြသည်။ လူထုဒေါ်အမာ၏ အောင်ဗလ ဖိုးစိန် စိန်ကတုံး။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၂၄၅)။

[*၂] မန်လည်ဆရာတော်ကြီးက သဘင်သည်များသေလျှင် ပဟာသရဲကျမည်–ဟု မိန့်ဆိုဖူး၍ သံချိုကိုင်ဦးကျော်လှကလည်း မိမိတို့သဘင်သည်မှမဟုတ်, အခြားကုန်သည်ပွဲစားတို့လည်း ပဟာသရဲကျမည်မှန်၏–ဟု သံချိုဖြင့် ပြန်လည်စာဆိုဖူး ပါသည်။ ဤအချက်များကိုရည်ရွယ်၍ ဇာတ်မင်းသားဖိုးစိန်က မေးလျှောက်ခြင်းဖြစ်သည်။ မောင်းထောင်ဦးကျော်လှ၏ သံချိုကဗျာပေါင်းချုပ်။ ပုံနှိပ်နှင့်စာအုပ်ထုတ်ဝေရေးကော်ပိုရေးရှင်း၊ ရန်ကုန်မြို့။ ၁၉၈၄–ခုနှစ်။ (စာမျက်နှာ–၅၉)။

[*၃] သိန်းဖေမြင့်၏ ဇာတ်ဆရာဦးဖိုးစိန်။ ၁၉၅၃–ခုနှစ်။ (စာမျက်နှာ–၁၀)။ လယ်တီဆရာတော်ကြီး၏ သြဝါဒအတိုင်း နောင်အခါ ဦးဖိုးစိန်သည် ပိဋကတ်စာပေနှံ့စပ်သော ဝမ်းပြေ့ဆရာဖိုးကြီး၊ ပိဋကတ်ဆရာမောင်၊ ရောဝဏ်ဦးအောင်ဒွန်း၊ ဆရာဆယ်၊ သံချိုဦးကျော်လှ၊ မြဝတီဆရာတော်လူထွက်ဦးအုံး–တို့အား ပါဠိစာပေဆိုင်ရာဇာတ်ထုပ်များရေးနိုင်းပြီး က,ပြခဲ့ပါသည်။ ကပြရာတွင် ဣလိသဗ္ဗိစိတ္တဇာတ်၊ မိတ္တဝိန္ဒက၊ ဥဂ္ဂါသေန၊ စန္ဒကိန္နရီ–တို့မှာ အလွန်ထင်ရှားခဲ့ပါသည်။ လူထုဒေါ်အမာ၏ အောင်ဗလ ဖိုးစိန် စိန်ကတုံး။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ ၂၄၅–၂၅၃)။

[*၄] ယင်း။ (စာမျက်နှာ–၂၄၅)။

[*၅] သိန်းဖေမြင့်၏ ဇာတ်ဆရာဦးဖိုးစိန်။ ၁၉၅၃–ခုနှစ်။ (စာမျက်နှာ–၁၄)။

ထို့နောက် ဇာတ်မင်းသားဖိုးစိန်က 'ဆရာတော်ဘုရားကြီးရေးစပ်တော်မူသော သံဝေဂဖွဲ့ တေးထပ်များ၊ နိဗ္ဗာန္ဒဖွဲ့တေးထပ်များကို အလွန်နှစ်သက်ပါကြောင်း၊ ထိုတေးထပ်များကို သီဆိုခွင့်ပြု တော်မူပါ'ဟု ခွင့်တောင်းရာ၊ ဆရာတော်ကြီးက 'အဝိဇ္ဇာ ပိတ်ကာဆို့'အစချီသောတေးထပ်၊*၁ 'ကိုယ်ခန္ဓာ ကောင်ရုပ်က'အစချီသောတေးထပ်*၂ နှင့် 'နှစ်မပါ ဗလာသုံး'*၃ အစချီသောတေးထပ် တို့ကို ရွတ်ဆိုအသုံးပြုရန် ခွင့်ပြုတော်မူခဲ့ပါသည်။

ဇာတ်မင်းသားဖိုးစိန်သည် လယ်တီဆရာတော်ကြီးထံချဉ်းကပ်ပြီးသည်မှစ၍ ဇာတ်က,ရင်း ဘာသာရေးအနှစ်သာရပါပါ ဟောတတ်ပြောတတ်လာသည်။ ပွဲကြည့်များကိုလည်း 'သဒ္ဓါကြည့် ကြည့်ကြပါ၊ တဏှာကြည့် မကြည့်ပါနှင့်၊ ပွဲကရင်း ကမ္မဋ္ဌာန်းတင်ကြစမ်းပါ' စသည်ဖြင့် ဟောပြောပြီး ကပြရာ ပွဲကြည့်သူအများကလည်း 'ဖိုးစိန်ပွဲကို ဥပုသ်စောင့်ရင်းကြည့်, သီလ မကျိုးဘူး၊ ငရဲလဲမကြီးဘူး၊ ကြည့်တတ်အောင်ကြည့်ရင် ကုသိုလ်ရသေးတယ်'ဟူ၍ပင် ပြောဆို ခဲ့ကြပါသည်။*၄

**ပလိပ်ကပ်ရောဂါဆက်လက်နှိမ်နင်းတော်မူပုံ**

လယ်တီဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၇၂–ခုနှစ် ဝါကျွတ်သောအခါ မုံရွာမြို့မှထွက် ခွာတော်မူပြီးလျှင် ပလိပ်ကပ်ရောဂါကျရောက်လျက်ရှိသော မြို့ရွာဒေသအသီးသီးသို့ကြွရောက် ပြီး ပလိပ်ကပ်ရောဂါဘေးကြီးငြိမ်းစဲစေရန် အားထုတ်ကြိုးပမ်းတော်မူခဲ့ပုံတို့ကို ဦးဝဏ္ဏိတက အောက်ပါအတိုင်း မှတ်တမ်းတင်ထားခဲ့ပါသည်။

> ဝါကျွတ်သောအခါ အောက်နိုင်ငံက တရားဟောပင့်သည့်အတွက် တရားဟော ကြွတော်မူလေ၏။ အောက်နိုင်ငံမှာတရားဟောရင်း သတင်းကိုနားထောင်သောအခါ သာစည်, မိတ္ထီလာ, မလှိုင်, ပန်းအိုင်–စသော မြင်းခြံမီးရထားလမ်းရှိ မြို့ရွာများတွင် အန္တရာယ်တွေဖြစ်နေကြောင်း၊ မန္တလေးမြို့ လေးပြင်လေးရပ်တစ်မြို့လုံးမှာ အနှံ့အပြား ပလိပ်ကပ်ရောဂါတွေဖြစ်နေ၍ မြို့ရှိသံဃာတော်တွေ တိုက်ပျက်အောင်ထွက်ပြေးကြရ သည်ဟု ကြားတော်မူလေ၏။ ထို့နောက် ဤသို့အကြံအစည်ဖြစ်တော်မူ၏။
>
> မြတ်စွာဘုရားသာသနာတော်ကြီးရှိပါလျက်နှင့် သည်ပလိပ်ကပ်အန္တရာယ်တွေ အနှံ့အပြားဖြစ်နေရခြင်း၊ အန္တရာယ်တွေနှိပ်စက်သည့်အတွက် သံဃာတော်တွေ ထွက်ပြေးနေရခြင်းသည် သာသနာတော်မြတ်၏အရောင်အဝါ ညှိုးနွမ်းရာရောက် နေ၏။ သာသနာတော်မြတ်ကြီး အစွမ်းမရှိရာရောက်နေ၏။ သို့အတွက် သာသနာ တော်၏ဂုဏ်ကိုဖြင့် မပျက်စေရဘူး၊ မငြိမ်းမနေရ ငြိမ်းအောင်ပြုလုပ်မည်–ဟု စိတ်အကြံဖြစ်ပေါ်တော်မူလေ၏။

---

*၁ လယ်တီဆရာတော်ကြီး၏ဂန္ထိရကဗျာကျမ်း။ ၁၉၅၆–ခုနှစ်။ (စာမျက်နှာ–၁၁၉)။

*၂ ယင်း။ (စာမျက်နှာ–၁၂၀)။

*၃ ယင်း။ (စာမျက်နှာ–၁၂၀)။

*၄ လူထုဒေါ်အမာ၏ အောင်ဗလ ဖိုးစိန် စိန်ကတုံး။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၃၄၆)။

အကြံဖြစ်ပြီးနောက် တရားပွဲတွေကိုရုပ်သိမ်းလျက် အထက်နိုင်ငံသို့တက်လာတော်မူရာ ပျဉ်းမနားမြို့သို့ရောက်တော်မူ၍ ငါးရက်တရားဟောတော်မူ၏။ တရားဟောရင်း တရားပလ္လင်ပေါ်ကနေ၍ ဤသို့မိန့်တော်မူ၏။ 'ယခုအထက်နိုင်ငံမှာ ပလိပ်ကပ်တွေဖြစ်နေသည်ကြား၍ တက်လာခဲ့သည်။ သည်နေ့ကစ၍ တရားပွဲကိုဖြတ်ပြီးလျှင် ပလိပ်ကပ်ရောဂါကို မီးခိုးလျှောက်လိုက်၍နှိမ်နင်းမည်။ မည်သည့်မြို့ရွာမဆို ပလိပ်ကပ်ရောဂါဖြစ်လျှင်အပင့်လာခဲ့ကြ'–ဟု အသံကျယ်စွာဟစ်အော်၍မိန့်တော်မူ၏။

၎င်းနောက် နေ့ရက်မကြာမီ မိတ္ထီလာမြို့ကလာ၍ပင့်လျှောက်သဖြင့် မိတ္ထီလာမြို့သို့ကြွတော်မူ၍ ပလိပ်ကပ်အန္တရာယ်တွေကို အတင်းနှင်ထုတ် ငြိမ်းစဲအောင်ပြုလုပ်တော်မူ၏။ မလှိုင်, ပန်းအိုင်, မြင်းခြံမီးရထားလမ်းတစ်လျှောက်လုံး၌ဖြစ်နေသော အန္တရာယ်တွေကို မနေမနားအတင်းနှင်ထုတ်တော်မူလေ၏။*၁

## မန္တလေးပလိပ်ကပ်ရောဂါ

၁၂၇၂–ခုနှစ်၊ တပို့တွဲလ (အေဒီ ၁၉၁၁–ခုနှစ်၊ ဇန်နဝါရီလ)တွင် မန္တလေးမြို့မှ 'ပလိပ်ရောဂါအန္တရာယ်ကျရောက်နေပါသည်၊ ကယ်တော်မူပါဘုရား'ဟု အကြောင်းကြားကြရာ၊ ဆရာတော်ကြီးက မန္တလေးသို့ 'ပလိပ်ကပ်အန္တရာယ်အတွက် ငါလာခဲ့မည်'ဟု သံကြိုးပေးလျက် မန္တလေးမြို့သို့ကြွတော်မူပြန်ပါသည်။ မန္တလေးမြို့သို့ရောက်သောအခါ လေးပြင်လေးရပ်၌ဖြစ်ပေါ်နေသော ပလိပ်ရောဂါကို ရက်(၂၀)အတွင်း နေ့ရောညဥ့်ပါ မနေမနားအပင်ပန်းခံလျက် ငြိမ်းစဲအောင်အားထုတ်တော်မူသည်။ ထိုစဉ်က ပရိတ်ရေ၊ ပရိတ်မီးလုပ်ငန်း၊ တစ်ကြောင်းဆွဲ စမအက္ခရာတံဆိပ်လုပ်ငန်းတို့ကိုပြသပေးပြီး ၁၂၇၀–ပြည့်နှစ်က ရေးသားခဲ့သော ရောဂန္တရဒီပနီကျမ်း၌ ထည့်သွင်းဖြည့်စွက်ကာ ထိုကျမ်းကိုအသစ်တစ်ဖန်ရိုက်နှိပ်ရန် မန္တလေးမြို့၊ ဈေးချိုတော်ကြီးအရှေ့ဘက် အပြင်တန်း ဆိုင်နံပါတ် ၃–၄–၅၊ ရတနာပုံမြန်မာစာအုပ်ဆိုင်ပိုင်ရှင် မင်းကတော်ကြီးမညွန့်သို့ ဆရာတော်ကြီးကိုယ်တိုင်ပေးအပ်တော်မူခဲ့ပါသည်။*၂

## အတိုက်အခံဋီကာကျမ်းများ

သက္ကရာဇ် ၁၂၇၁–ခုနှစ်မှစ၍ ၁၂၇၂–ခုနှစ်အတွင်းထိ လယ်တီဆရာတော်ကြီး၏ပရမတ္ထဒီပနီကိုချေပရန် အားထုတ်ရေးသားကြသောဋီကာကျမ်းများ တစ်အုပ်ပြီးတစ်အုပ် ပုံနှိပ်ထွက်ပေါ်လာသည်။ ယင်းစာအုပ်တို့တွင် ၁၂၇၂–ခုနှစ်၊ တန်ဆောင်မုန်းလ (အေဒီ ၁၉၁၀–ပြည့်နှစ်၊ နိုဝင်ဘာလ)တွင် ရန်ကုန်မြို့၊ အမှတ်(၅၇)၊ စဥ့်အိုးတန်းလမ်းရှိ သာသနာလင်္ကာရပိဋကတ်ပုံနှိပ်တိုက်ကရိုက်နှိပ်သော 'အဘိဓမ္မတ္ထအနုဝိဘာဝနီပါဌ်၊ ပထမတွဲ'*၃ သည်လည်း တစ်အုပ်

---

*၁ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ ၉၁–၉၃)။

*၂ လယ်တီဆရာတော်ကြီး၏ရောဂန္တရဒီပနီကျမ်း၊ ရတနာပုံမြန်မာစာအုပ်ဆိုင်၊ မန္တလေးမြို့။ ၁၂၇၃–ခုနှစ်။ (စာမျက်နှာ–၂)။

*၃ ဘားကူးဆရာတော်ကြီးက ဤကျမ်းကိုအပြည့်အစုံရေးသားပြီးဖြစ်သော်လည်း တာဝန်ခံရိုက်နှိပ်သူ ဒါယကာက ကျမ်းထက်ဝက်ကိုသာ ပထမတွဲအဖြစ်ရိုက်နှိပ်ခဲ့ခြင်းဖြစ်သည်။

အပါအဝင်ဖြစ်သည်။ ဤကျမ်းကို ဟံသာဝတီခရိုင်၊ ခရမ်းမြို့နယ်၊ ဘားကူးရွာ*[၁] ပုဗ္ဗာရုံကျောင်းဆရာတော်အရှင်သာဂရာဘိဓဇ*[၂] ပါဠိဘာသာဖြင့်ပြုစုတော်မူခြင်းဖြစ်သည်။

ထိုကျမ်းတွင်လည်း အင်္ဂုတ္တိုရ်ဋီကာ၊ အတိသုန္ဒရ-စသောကျမ်းများမှာကဲ့သို့ပင် လယ်တီဆရာတော်၏ဋီကာကျော်နှင့်စပ်လျဉ်းသော တင်ပြချက်တို့ကို ပယ်ဖျက်၍ပြဆိုတော်မူခဲ့ပါသည်။ ပြဆိုပုံအချို့မှာ– 'ပရမတ္ထဒီပနိဋ္ဌ.........ဤသို့ဆို၏။ ထိုအဆိုကို အနှစ်သာရအားဖြင့် မယူလေနှင့်၊ မြတ်မြတ်နိုးနိုးမယုံကြည်နှင့်'စသည်ကို 'ပရမတ္ထဒီပနိယံ ပန (.........) တိ ဝုတ္တံ။ န တံ သာရတော ပစ္စေတဗ္ဗံ'ဟူ၍ဖော်ပြထားပြီး၊ *[၃] 'ပရမတ္ထဒီပနိဋ္ဌဖော်ပြထားသော ဤအချက်တို့သည် မတင့်တယ်မကောင်းမြတ်'-ဟူသောသဘောဖြင့် 'တံ နသုန္ဒရံ'*[၄]-ဟူသော အသုံးအနှုန်းကိုကား အကြိမ်ပေါင်းများစွာဖော်ပြထားပေသည်။

ဤသို့ လယ်တီဆရာတော်ကြီး၏ပရမတ္ထဒီပနီကျမ်းကို အတိုက်အခံပြု၍ပေါ်ထွက်ခဲ့သော ဋီကာကျမ်းများသည် ယင်းတို့နှင့်သက်ဆိုင်သောအသိုင်းအဝန်းအစုအဝေးအတွင်းမှာသာ ပြန့်နှံ့ခြင်းဖြစ်ခဲ့လေသည်။ လယ်တီဆရာတော်ကြီး၏ပရမတ္ထဒီပနီကဲ့သို့ နိုင်ငံအနှံ့ ကျယ်ကျယ်ပြန့်ပြန့် မပြန့်နှံ့ခဲ့ပေ။ ထို့ပြင် ထိုကျမ်းများပေါ်ထွက်ချိန်၌ လယ်တီဆရာတော်ကြီး၏ဂုဏ်သတင်းသည် နိုင်ငံတော်အတွင်း၌လွှမ်းစွာကြီးမားလျက်ရှိပြီး၊ ဆရာတော်ကြီးဦးစီးသော ပရမတ္ထသံခိပ်အသင်း၊ ပဋ္ဌိစ္စသမုပ္ပါဒ်အသင်း၊ ဓာတ်ကမ္မဋ္ဌာန်းအသင်း၊ စက်ပရိတ်အသင်း၊ နွားသားရှောင်ကြဉ်ရေးအဖွဲ့၊ မန္တလေးမြို့ ဗုဒ္ဓဘာသာသာသနာပြုအသင်း၊ ရန်ကုန်မြို့ ဗုဒ္ဓသာသနသမာဂမအသင်း၊ ဓမ္မသဝန ဗုဒ္ဓသာသနာပြုအသင်း-စသည့်အသင်းအဖွဲ့များသည်လည်း နိုင်ငံတစ်ဝန်း ပြန့်နှံ့တည်ထောင်ထားရှိပြီးဖြစ်ပါသည်။ ထို့ပြင် ဆရာတော်ကြီးပြုစုသောဒီပနီကျမ်းစာများမှာ တစ်ကျမ်းပြီးတစ်ကျမ်း၊ အချို့ကျမ်းများဆိုလျှင် ပထမအကြိမ်မက အကြိမ်ကြိမ် အုပ်ရေများစွာပုံနှိပ်ခဲ့ရသဖြင့် ဖတ်ရှုရသူသူတော်စင်တို့မှာ 'လယ်တီမှလယ်တီ' ဖြစ်နေလေသည်။

ထို့နောက် အရပ်ရပ်အနယ်နယ်သို့ လယ်တီဆရာတော်ကြီးလှည့်လည်၍တရားဒေသနာဟောကြားတော်မူသည်ကို နာယူကြရသဖြင့် 'လယ်တီတရားမှအဆီပါသည်'၊ 'လယ်တီတရားနာမိလျှင် မိမိကိုယ်မှာ မဂ်,ဖိုလ်ရသလိုဖြစ်ရပါသည်'-ဟု ဓမ္မပီတိ, ဓမ္မရသ မိမိရရခံယူရရှိနေချိန်လည်းဖြစ်သည်။ ထို့ထက်အရေးပါသည်မှာကား ဆေးဆရာများ၊ အစိုးရအဖွဲ့အစည်းများက လက်မှိုင်ချထားရသော ပလိပ်ကပ်ရောဂါနှင့် ထိုကပ်ရောဂါကြောင့် မြို့အသီးသီးမှပြည်သူများကပ်ဘေးရှောင်ပြေးကြသဖြင့် မြို့ရွာပျက်စီးလုချောက်ချားနေသောအချိန်တွင် တရားပလ္လင်ထက်မှ

---

*[၁] ရန်ကုန်တိုင်း၊ တောင်ပိုင်းခရိုင်၊ သန်လျင်မြို့နယ်အတွင်း၌ရှိသည်။ ယခုအခါ ဖားကူးအရှေ့၊ ဖားကူးအနောက်-ဟု နှစ်အုပ်စုခွဲထားသည်။

*[၂] အရှင်သာဂရာဘိဓဇသည် ဒွါရနိကာယာဓိပတိ အရှင်ဥက္ကံဝံသမာလာဆရာတော်ဘုရားကြီး၊ ဇလွန်ဆရာတော်အရှင်သီရိမာလာ-တို့၏ တပည့်ရင်းဖြစ်သည်။

*[၃] အရှင်သာဂရာဘိဓဇ၏ အဘိဓမ္မတ္ထအနုဝိဘာဝနီပါဠ်၊ ပထမတွဲ။ ၁၂၇၂-ခုနှစ်။ (စာမျက်နှာ-၄)။

*[၄] ယင်း။ (စာမျက်နှာ-၇)။

နေ၍ ဝင့်ဝင့်ကြွားကြွားမားမားမတ်မတ်ရပ်တည်ကာ ကပ်ရောဂါကာကွယ်ရေးကိစ္စများကိုမနားမနေ ဆောင်ရွက်နေတော်မူသော လယ်တီဆရာတော်ကြီးအား အများဒါယကာတို့က သည်းလှိုက် ရင်လှိုက် 'ကျေးဇူးတော်ရှင်ဆရာတော်ဘုရားကြီး' ဟု အားကိုးအားထားပြုကြကာ မိမိတို့မြို့ရွာသို့ ဆရာတော်ကြီးကြွလာတော်မူချိန်ကို တမ်းတနေစဉ်အခါဖြစ်သည်။ ဤသို့သောအချက်များအရ လယ်တီဆရာတော်ကြီးအား တစ်တိုင်းပြည်လုံးက ညွတ်ရုံးကိုးစား ဘုန်းရိပ်ခိုလှုံကာနေကြအချိန် မျိုးဝယ် လယ်တီဆရာတော်ကြီး၏အပြစ်ကိုဖော်ပြလျက်ရေးသားကြသော ထိုငွိုကာကျမ်းမျိုးကို ဗုဒ္ဓဘာသာဝင်သူတော်စင်အများစုက လျစ်လျူရှုခဲ့ကြသည်မှာ ထူးခြားလှသည်မဟုတ်ပေ။

**အလင်းကျမ်း**

သက္ကရာဇ် ၁၂၇၂–ခုနှစ်၊ တပေါင်းလဆန်း ၇–ရက် (အေဒီ–၆၊ မတ်လ၊ ၁၉၁၁) ညတွင် လယ်တီဆရာတော်ကြီးသည် မန္တလေးမြို့အရှေ့မြောက်ရှိ ချမ်းအေးသာစံမြို့နယ် ဒေါင်းရိုး ရပ်ကွက်*၁ အိမ်တော်ရာဘုရားအနီး တရားဟောမဏ္ဍပ်ကြီးအတွင်း တရားနာရှင်လူပရိသတ် ငါးထောင်ကျော်ကို အလင်းငါးပါးတရားတော်ကြီးကိုဟောကြားတော်မူခဲ့ပါသည်။ သို့ဟောကြား တော်မူရာတွင် အမိုက်ကြီးငါးပါးနှင့်ယှဉ်၍ဟောကြားခြင်းဖြစ်ရာ အမိုက်ကြီးငါးပါး, အလင်းကြီး ငါးပါးတို့မှာ အောက်ပါအတိုင်းဖြစ်သည်။

က။ အမိုက်ကြီးငါးပါး–

၁။ ကမ္မသမ္မောဟ = ကံ, ကံ၏အကျိုးကိုမသိခြင်း အမိုက်ကြီး၊

၂။ ဓမ္မသမ္မောဟ = တရားကိုမသိခြင်း အမိုက်ကြီး၊

၃။ ပစ္စယသမ္မောဟ = အကြောင်းအရာတို့ကိုမသိခြင်းအမိုက်ကြီး၊

၄။ လက္ခဏာသမ္မောဟ = လက္ခဏာရေးသုံးပါးကိုမသိခြင်း အမိုက်ကြီး၊

၅။ နိဗ္ဗာနသမ္မောဟ = သန္တိ စခန်းကိုမသိခြင်း အမိုက်ကြီး–တို့ဖြစ်သည်။

ခ။ အလင်းကြီးငါးပါး–

၁။ ကမ္မသကတာဉာဏ်အလင်းကြီး၊

၂။ ဓမ္မဝတ္ထာနဉာဏ်အလင်းကြီး၊

၃။ ပစ္စယဝတ္ထာနဉာဏ်အလင်းကြီး၊

၄။ လက္ခဏပဋိဝေဓဉာဏ်အလင်းကြီး၊

၅။ နိဗ္ဗာနပဋိဝေဓဉာဏ်အလင်းကြီး–တို့ဖြစ်သည်။*၂

---

*၁ ယခု မန္တလေးမြို့ ချမ်းအေးသာစံမြို့နယ်၊ သီရိဟေမာအရှေ့ရပ် အိမ်တော်ရာဝန်းကျင်ဖြစ်သည်။ ၂၉–လမ်း၊၂၈–လမ်း၊ ၈၆–လမ်းပွဲရုံဈေးတန်းများနှင့် လူစည်ကားရာပွဲစားတန်းဝန်းကျင်ရပ်ကွက်ကြီးဖြစ်သည်။ ရှေးအခါက သင်္ဘောဆိုက်ကပ်ရာ ဖြစ်၍ ဒေါင်းရိုးသင်္ဘောတန်းဟုလည်းခေါ်သည်။ နတ်မောက်ထွန်းရှိန်၏ ဝင်းတွေနဲ့တည်ခဲ့သည့်မင်းနေပြည်။ ၂၀၀၄–ခုနှစ်။ (စာမျက်နှာ–၂၅၁)။

*၂ လယ်တီဆရာတော်ကြီး၏ အလင်းကျမ်း။ လယ်တီဒီပနီပေါင်းချုပ်၊ ပထမတွဲ။ ၁၉၆၆–ခုနှစ်။ (စာမျက်နှာ–၃၅၈)။

ဤအလင်းတရားတော်ကြီးကို နာယူသူတို့တွင် မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏တပည့် အရှင်မာလာသည်လည်းလာရောက်နာယူလေရာ၊ ထိုအရှင်မာလာက လယ်တီဆရာတော်ကြီးထံပါးဦးခိုက်ပြီး 'ဗုဒ္ဓဘာသာဝင်ရှင်လူအများတို့အား ၎င်းအလင်းကြီးငါးပါးတို့ကို ထင်ရှားစွာရရှိကြစေခြင်းအကျိုးငှာ အလင်းကျမ်းကိုပြုစုတော်မူပါမည့်အကြောင်း' လျှောက်ထားရာ၊ ရှေးယခင်က ရွှေဘိုးမြို့၌ ဤတရားဟောစဉ်အချိန်က ကျမ်းပြုရန်လျှောက်ထားဖူးကြသည်လည်းရှိသေးသည်ဖြစ်၍ ဤလျှောက်ထားချက်တို့ကိုအကြောင်းပြု၍ လယ်တီဆရာတော်ကြီးသည် အလင်းကျမ်းကိုရေးသားတော်မူခဲ့ပါသည်။*၁

**အဟုတ်ကျော်သင့်သောတရား**

မန္တလေးမြို့၌ လယ်တီဆရာတော်ကြီး၏တရားပွဲများပြုလုပ်ကျင်းပကြရာတွင် မြို့လယ်မလွန်ဈေးအနီး သကျသီဟဘုရားဝင်းအတွင်းမှာလည်း တရားဟောမဏ္ဍပ်ကြီးတည်ဆောက်ကာ ပြုလုပ်ကျင်းပခဲ့ကြပါသည်။ တရားနာပရိသတ်မှာ ဘုရားဝင်းနှင့်အပြည့်ဖြစ်သည်။ တရားနာပရိသတ်တွင် လူပုဂ္ဂိုလ်တို့ထက် ရှင်ရဟန်းပရိသတ်က အများအပြားပါဝင်တော်မူကြသည်။

ထိုအချိန်က ဝိသုဒ္ဓါရုံတိုက်သစ် အောင်မြေသာစည်အလယ်တိုက်ကြီး၌ ဂဏဝါစကတိုက်စာချအဖြစ်သီတင်းသုံးကာ စာဝါပို့ချပေးနေတော်မူသော ဘာသန္တရဝိဒူ အရှင်အဂ္ဂဓမ္မ*၂ သည် နောက်ပါတပည့်တစ်ပါး*၃ ကို ကျားပါးစပ်လက်ဆွဲမီးအိမ်ကလေးကိုဆွဲကိုင်စေကာ အဖော်အဖြစ်ခေါ်ယူခဲ့ပြီး သကျသီဟဘုရားဝင်းပြင်ပ သစ်ပင်အောက်မှရပ်လျက်ပင် လယ်တီဆရာတော်ကြီး၏တရားကိုနာယူခဲ့ပါသည်။ အရှင်အဂ္ဂဓမ္မသည် လွန်ခဲ့သည့်ရက်က အခြားဓမ္မကထိကဆရာတော်တစ်ပါးဟောကြားသောတရားကိုလည်း ယခုလိုပင်ကြွရောက်နာယူခဲ့ပြီးဖြစ်ပါသည်။ လယ်တီဆရာတော်ကြီး၏တရားကိုနာယူရတော်မူသောအခါ အရှင်အဂ္ဂဓမ္မသည် နှစ်သက်သဘောကျတော်မူပြီး တရားပွဲအပြီးတွင် အနီးနေတပည့်တို့အား 'လယ်တီဆရာတော်ကြီးကျော်တယ်ဆိုတာ

---

*၁ လယ်တီဆရာတော်ကြီး၏ အလင်းကျမ်း။ လယ်တီဒီပနီပေါင်းချုပ်၊ ပထမတွဲ။ ၁၉၆၆-ခုနှစ်။ (စာမျက်နှာ-၃၅၇)။

*၂ နောင်အခါ မန္တလေးမြို့ စိန်ပန်းရပ် အဂ္ဂမဟာပဏ္ဍိတအဘယာရာမဆရာတော်ဘုရားကြီးအရှင်အဂ္ဂဓမ္မာဘိဝံသဟု ထင်ရှားကျော်ကြားတော်မူပါသည်။ အဘယာရာမဆရာတော်ကြီးသည် သက္ကရာဇ်-၁၂၄၀ (အေဒီ-၁၈၇၈)ခုနှစ် ဖွားတော်မူ၍၊ ၁၂၆၀ (အေဒီ-၁၈၉၈)ခုနှစ်တွင် ရဟန်းဖြစ်တော်မူပါသည်။ ရဟန်းဖြစ်စမှ ရဟန်း(၂)ဝါရသည်တိုင် ပခုက္ကူမြို့၌ ပညာသင်ယူခဲ့ပြီး၊ ရဟန်း(၃)ဝါတွင် မန္တလေးမြို့ ခင်မကန်တိုက်၊ ရဟန်း(၅)ဝါအရတွင် မိုးကောင်းတိုက်နှင့် ရဟန်း(၇)ဝါအရတွင် မဟာဝိသုဒ္ဓါရုံတိုက်သို့ရောက်ရှိကာ ပညာသင်ယူခဲ့ပါသည်။ သက္ကရာဇ်-၁၂၇၁ မှ ၁၂၇၂-ခုနှစ် ထို(၂)နှစ်တွင် မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ အထောက်အပံ့ဖြင့် အိန္ဒိယနိုင်ငံ၌ပညာသင်ယူခဲ့ပြီး၊ ၁၂၇၃-ခုနှစ်တွင် မြန်မာနိုင်ငံသို့ ပြန်လည်ရောက်ရှိတော်မူစအခါဖြစ်သည်။ အဘယာရာမဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ။ ၁၃၂၀-ပြည့်နှစ်၊ သုဓမ္မဝတီ ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ- ၄၊ ၁၇၊ ၃၀၊ ၃၁၊ ၃၂၊ ၄၅၊ ၁၅၁)။

*၃ ထိုအရှင်မှာ နောင်အခါ အဂ္ဂမဟာပဏ္ဍိတ မင်းကွန်း ပတ္တမြားဆရာတော်ကြီးဦးဇာဂရဖြစ်ပါသည်။ ပတ္တမြားဆရာတော်ကြီးသည် ၁၂၄၅ (အေဒီ-၁၈၈၃) ခုနှစ်၌ဖွားတော်မူ၍၊ ၁၂၇၃ (အေဒီ-၁၉၁၁)ခုနှစ်တွင် ဝိသုဒ္ဓါရုံတိုက်သို့ရောက်ရှိပါသည်။ အရှင်ပဏ္ဍိတ၏ ရွှေကျင်နိကာယသာသနာဝင်။ ၁၉၆၃-ခုနှစ်။ (စာမျက်နှာ-၄၃၆)။

အဟုတ်ကျော်သင့်တာပဲ၊ ဟောကြားတော်မူတဲ့တရားက သက်သေပြနေတာပဲကွဲ့’ဟု မိန့်ကြားတော်မူခဲ့ပါသည်။ *၁

အမရပူရတရားပွဲ

သက္ကရာဇ် ၁၂၇၃–ခုနှစ်၊ တန်ခူးလ (အေဒီ ၁၉၁၁–ခုနှစ်၊ ဧပြီလ)တွင် မန္တလေးမြို့၌ သီတင်းသုံးနေတော်မူသော လယ်တီဆရာတော်ဘုရားကြီးအား အမရပူရမြို့က ဦးလှ၊ ဦးညွန့်၊ ဦးရင်လေး၊ ဦးသာဒင်စသော ဒါယကာကြီးတစ်စုတို့က အမရပူရမြို့သို့တရားဟောကြွတော်မူပါရန် ပင့်လျှောက်ခဲ့ကြပါသည်။

လယ်တီဆရာတော်ဘုရားကြီးကလည်း ‘ဤအချိန်အခါသည် မန္တလေးမြို့၌ အလွန်ပူပြင်းရကား အရိပ်အာဝါသပေါများသောအမရပူရ၌ သီတင်းသုံးတော်မူရလျှင်သင့်လေစွ’ဟူ၍ ဆန္ဒရှိတော်မူသောကြောင့် အမရပူရမြို့သို့ သီးသန့်မီးရထားဖြင့်ကြွတော်မူခဲ့ပါသည်။ လယ်တီဆရာတော်ဘုရားကြီး အမရပူရမြို့သို့ရောက်တော်မူလျှင် မြို့သူမြို့သားများသည် စည်ကားသိုက်မြိုက်စွာ ဝေါယာဉ်အထမ်းဖြင့်ကြိုဆိုကြပြီးလျှင် ယာယီစံကျောင်းနေရာဖြစ်သော အမရပူရမြို့ ရွှေဂွမ်းထုပ်ရပ်ကွက် တရုတ်တန်းရပ်ရှိ ကွမ်ရှီယင်တရုတ်ဘုံကျောင်းကြီး*၂ အတွင်းသို့ ပင့်ဆောင်ခဲ့ကြသည်။

အမရပူရမြို့၌သီတင်းသုံးနေတော်မူစဉ် လယ်တီဆရာတော်ဘုရားကြီးသည် ညစဉ် တရုတ်ဘုရားကျောင်းကြီးအတွင်း၌ တရားပွဲများကျင်းပတော်မူပါသည်။ ထိုတရားပွဲများ၌ အမဲသားရှောင်ကြဉ်သူ၊ သေရက်ရှောင်ကြဉ်ကြသူများကို ပထရမတံဆိပ်ပါလက်ဖွဲ့ကလေးများကိုချီးမြှင့်ပေးတော်မူပါသည်။

ညနေစောင်းရေသုံးသပ်ချိန်၌ ထိုတရုတ်ဘုရားကျောင်းနှင့်မနီးမဝေးရှိ သရက်တောကျောင်းဝင်းအတွင်းကြွ၍ ရေသုံးသပ်တော်မူပါသည်။*၃

အမရပူရ၏စေတနာလွန်ပုံ

အမရပူရမြို့ရှိ ဒါယကာ, ဒါယိကာမတို့သည် လယ်တီဆရာတော်ဘုရားကြီးအား ကြည်ညိုသဒ္ဓါပိုကြသည့်အလျောက် နေ့စဉ်ဆွမ်းပွဲများကို လှည်းကြီးများဖြင့်တိုက်ပြီး ပို့လှူကြသည်။

---

*၁ မန္တလေးမြို့၊ ပတ်ကုံးပျော်ဘွယ်ရပ်၊ နယူးစိဗိလိုင်း၊ ဝိဇိတာရုံဆရာတော်ကြီး၏ (၂၇၊ ၄၊ ၁၉၇၆)နေ့ မိန့်တော်မူချက်ဖြစ်ပါသည်။

*၂ ဤဘုရားကျောင်းကြီးကို သက္ကရာဇ်–၁၁၃၅ (အေဒီ–၁၇၇၃)ခုနှစ် ဆင်ဖြူရှင်မင်းလက်ထက်က ဆောက်လုပ်ခဲ့ခြင်းဖြစ်သည်။ အကြိမ်ကြိမ်မီးသင့်ခဲ့သဖြင့် ၁၂၀၀–ပြည့် (အေဒီ–၁၈၃၈)ခုနှစ် သာယာဝတီမင်းလက်ထက်တွင် မီးတားတံတိုင်း၊ အဆောင်များတိုးချဲ့ကာ ပြုပြင်ထားခဲ့ခြင်းဖြစ်သည်။ အတွင်းဆောင်အခန်းများတွင် အလွန်လက်ရာမြောက်သော ပန်းပုလက်ရာ ဗိသုကာလက်ရာများရှိလေသည်။ ကိုပညာ(အမရပူရ)၏ တောင်သမန်ဝန်းကျင်သမိုင်းဝင်နေရာများ။ စာပေလောကပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၉၆–ခုနှစ်။ (စာမျက်နှာ–၈၈)။

*၃ အမရပူရမြို့နေ သံခိပ်အသင်းသူဟောင်း ဒေါ်ကြိမ်၏ပြောပြချက်ဖြစ်သည်။



လယ်တီဦးပဒုမ




လယ်တီဆရာတော်ကြီး ခေတ္တသီတင်းသုံးခဲ့သော အမရပူရမြို့ရှေ့ဂွမ်းထုပ်ရပ်ရှိ ကွမ်ယင်ဘုရားကျောင်း



လယ်တီဆရာတော်ကြီးထံ
နည်းခံခွင့်ရခဲ့သော
စစ်ကိုင်းတောင်ရိုး ဂုဏလေးချောင်ဆရာကြီး
ဒေါ်ဓမ္မစာရီ

နွေရာသီအခါ အပူပြင်းသည့်အတွက် ဆရာတော်ဘုရားကြီးမျှတစေရန် အအေးစာလည်းဖြစ်၊ အာဟာရလည်းဖြစ်သော ငှက်သိုက်ကိုဆွမ်းပြုတ်နှင့်ရောစ၍ကျိုပြီး ကပ်လှူကြပါသည်။

ထို့ထက်စေတနာလွန်ပုံမှာ ဆရာတော်ဘုရားကြီးသီတင်းသုံးတော်မူရာ တရုတ်ကျောင်းဝင်း မြောက်ဘက် အခန်းကျယ်ကြီးအလယ်ရှိမြေကွက်လပ်၌ ရေမပြတ်ဖျန်းထားပြီး ငှက်ပျောရှင်များ စိုက်ထားပေး၏။ သစ်ခက်ဝါးခက်များဖြင့်လည်း အရိပ်အာဝါသရရန် မိုးကာဖန်တီးပေးကြပြန်၏။ အပူဒဏ်ကိုသက်သာသည်မှန်သော်လည်း သဘာဝဥတုကိုလွန်လွန်ကဲကဲဆန့်ကျင်မိသည့်အတွက် မြေငွေ့ကန်ကာ ဆရာတော်ဘုရားကြီးမှာ အပူငုပ်၍ စက္ခုတော်အစုံထိခိုက်တော်မူခဲ့ရပါသည်။ ထိုစဉ်ကပင် ဆရာတော်ဘုရားကြီးက တပည့်ဦးကျော်ရန်ကိုခေါ်ပြီး– 'မောင်ကျော်ရန်ရဲ့ ငါ့မျက်စိများဟာ ကြည့်လို့သိပ်အားမရဘူးကွဲ့'ဟု အမိန့်ရှိတော်မူပါသည်။*၁

လယ်တီဆရာတော်ဘုရားကြီးသည် အမရပူရမြို့၌သီတင်းသုံးတော်မူပြီးနောက် တပည့် ဖြစ်သူ သီလရှင်ဆရာ ဒေါ်ဓမ္မစာရီ၏ပင့်လျှောက်ချက်အရ မင်းကွန်းတောင်ရိုးသို့လည်း ကြွတော် မူပါသည်။ ထိုအခါ ဒေါ်ဓမ္မစာရီသည် မိမိမရှင်းလင်းသည့်စာပေများကို ဆရာတော်ကြီးထံ မေးလျှောက်ခဲ့ပါသည်။*၂

ဆရာတော်ဘုရားကြီးသည် မင်းကွန်းသို့ရောက်တော်မူသောအခါ မင်းကွန်းတောင်၌သီတင်း သုံးနေတော်မူကြသော အရှည်ဝါသီပုဂ္ဂိုလ်များနှင့်လည်းတွေ့ဆုံတော်မူကာ နက်နဲသောတရား တော်မြတ်တို့ကို ဆွေးနွေးဟောပြောတော်မူပါသည်။ မင်းကွန်းတွင် လယ်တီဆရာတော်ကြီး သည် မိမိ၏မိတ်ဆွေရင်း ချမ်းသာကြီးဆရာတော်ဦးပဏ္ဍဝံသ၏ ရတနာဂိရိဝေယန်ဘုံမြင့်ချောင်၌ ခေတ္တသီတင်းသုံးနေတော်မူခဲ့ပါသည်။ ထို့နောက် ဧရာဝတီမြစ်ကိုဖြတ်ကူးပြီး မန္တလေးမြို့သို့ ပြန်ကြွတော်မူခဲ့ပါသည်။

**တောင်တွင်းကြီးတရားပွဲ**

သက္ကရာဇ် ၁၂၇၃–ခုနှစ်၊ ဝါဆိုလမတိုင်မီတွင် တောင်တွင်းကြီးမြို့မှပင့်စာရောက်ရှိလာ သောအခါ ဆရာတော်ဘုရားကြီးက 'တောင်တွင်းကြီးကို ငါတို့မရောက်ဖူးသေးဘူးကွဲ့'ဟု အမိန့်ရှိတော်မူပြီးလျှင် တောင်တွင်းကြီးမြို့သို့ သင်္ဘောဖြင့်ကြွတော်မူပါသည်။

တောင်တွင်းကြီးသားဒါယကာအပေါင်းတို့က ဧရာဝတီမြစ်ကမ်း မိချောင်းရဲဆိပ်မှ တောင် တွင်းကြီးမြို့အထိ မိုင်ပေါင်း(၃၅)မိုင်ခန့်ကွာဝေးသော ခရီးလမ်းကို ထမ်းစင်ဖြင့် ဆရာတော် ဘုရားကြီးကို ပင့်ဆောင်ကြပါသည်။ တောင်တွင်းကြီးမြို့သို့ရောက်လျှင် ခုနစ်ညတိုင်တိုင် တရား ပွဲများပြုလုပ်ကျင်းပကြသည်။ ညစဉ် တရားနာပရိသတ်မှာ တိုး၍များပြားလာသဖြင့် အချို့ ညများတွင် ဆရာတော်ဘုရားကြီးသည် ပရိသတ်ထုကြားသိအောင် အသံကုန်လွှတ်၍ဟောပြော တော်မူရသဖြင့် မောပန်းလှရကား သတိလစ်သောအခါများပင်ရှိခဲ့ပေ၏။

*၁ ဆရာကြီးဦးလှတင်(ဦးဝဏ္ဏိတ)၏ ပြောပြချက်ဖြစ်သည်။

*၂ အရှင်ဃောသိတ (ရေနံ့သာ)၏ ဆရာကြီးဒေါ်ဓမ္မစာရီ၏ ဘဝဖြစ်စဉ်အတ္ထုပ္ပတ္တိ။ ၁၉၉၂–ခုနှစ်။ (စာမျက်နှာ–၁၀)။

တောင်တွင်းကြီးမြို့၌ ဆရာတော်ဘုရားကြီးသည် ပထမညတွင် နိယတမဟာသရဏဂုံ တရားတော်ကြီးဟောတော်မူပါသည်။ ထိုတရားဦး၌ ဆရာတော်ဘုရားကြီးက–

'တောင်တွင်းကြီးမြို့အကြောင်းကို ရှေ့ကပင်သိရှိခဲ့သော်လည်း စာတွေ့နှင့်သာ လွမ်းနေရသည်၊ ယခုတော့ ငါတွေ့ဖြစ်ရပေပြီ။ မိကျောင်းရဲဆိပ်ကမ်းမှစပြီး တောင်တွင်းကြီးမြို့အထိတိုင်အောင် ပန်းဖြင့်ထမ်းဆောင်ပင့်ယူလာလိုက်တာ မညည်းမညူကြဘဲ ဖွဲ့သတ္တိကောင်းကြပါပေရဲ့။

ရှေးက သာသနာဂင်မှာ ရာဇဝင်ပြောင်ခဲ့ကြသော ခင်ကြီးပျော်၊ ခင်ကြီးပြောင်၊ ရှင်ဥတ္တမကျော်–စသည်တို့အပြင် မြို့လုလင်စား ရွှေလရောင်မင်းကြီးတို့ဆိုတာ တောင်တွင်းသား လူကျော်၊ လူမော်၊ လူဇော်တွေပဲကွဲ့။

တောင်တွင်းကြီးမြေကိုက ဘူမိနက်သန်မှန်ပါပေတယ်။ တောင်တွင်းကြီးမြေပေါ်မှာ ပေါက်ပွားကြတဲ့ပုဂ္ဂိုလ်တွေဟာ ပုဂ္ဂိုလ်ချွန်၊ ပုဂ္ဂိုလ်မွန်တွေသာများကြသကွဲ့။ သို့အတွက် ရှေးမဆွကနူးပြီးနပ်ပြီးဖြစ်နေကြတဲ့ ပရိသတ်တွေကို ဟောရတော့ ပြောရတော့ သက်သက်သာသာချောင်ချောင်ချိချိနဲ့ မပင်ပန်းဘူးကွဲ့'–ဟူသောစကားဖြင့် အစချီမိန့်တော်မူပါသည်။*၁

ဒုတိယညတွင် ဗုဒ္ဓဘာသာအသင်းတရားကြီး၊ တတိယညမှ သတ္တမညတိုင်အောင် ခန္ဓာငါးပါးကို တစ်ပါးလျှင်တစ်ညစီ ငါးရက်တိုင်တိုင်အကျယ်ဝေဖန်ဟောကြားတော်မူပါသည်။

နောက်ဆုံး သတ္တမမြောက်ည၌ မန္တလေးမြို့ အနောက်ပြင် ဗိုလ်ကုန်းကျောင်းတိုက်မှ ဆရာတော်ဦးလက္ခဏသည် တောင်တွင်းကြီးမြို့သို့အာဂန္တုအဖြစ်ရောက်ရှိနေပြီး ကြုံကြိုက်သဖြင့် ဆရာတော်ဘုရားကြီးတရားပွဲသို့လာရောက်နာယူမိရာ တရားပွဲအပြီးတွင် ဆရာတော်ဘုရားကြီး၏ ခြေတော်ရင်းသို့ ခိုမိုးဝင်ရောက်ဦးခိုက်ကာ အောက်ပါအတိုင်းလျှောက်ထားခဲ့ပါသည်။*၂

'တပည့်တော် လျှောက်ထားပါသည်ဆရာတော်ဘုရား။ တပည့်တော်သည် မန္တလေးမြို့ ဗိုလ်ကုန်းကျောင်းတိုက်၌သီတင်းသုံးပါသည်။ မန္တလေးရွှေမြို့တော် လေးပြင်လေးရပ်အနှံ့အပြား ဆရာတော်ဘုရားကြီးတရားဟောပြောလျက်နေသော်လည်း တစ်ရံတစ်ခါမျှ မကြားနာဖူးပါ။ သူလိုငါလိုထင်၍ လယ်တီလိုတော့ ငါတို့လဲ ဟောတတ်ပါတယ်၊ လယ်တီလဲ ဘုရားဟောတဲ့ကရားပါပဲ၊ တို့လဲ ဘုရားဟောတဲ့ တရားကလွဲလို့ အလိုအပိုဟောတာမဟုတ်ပါဘူးဟု အထင်အမြင်သေးမိပါသည်။ ယခု တောင်တွင်းကြီးကျမှ လူရောရှင်ရောအပြောများသဖြင့် အကဲခတ်အစမ်းသပ်သဘောနာကြားကြည့်ရာ တပည့်တော်၏ထင်မြင်ချက်တွေသည် ပါစင်အောင်လွဲနေပါပြီ၊ မှားကုန်ပါပြီဘုရား'ဟု လျှောက်ထားတောင်းပန်လေသည်။

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၈၀)။

*၂ ထိုဗိုလ်ကုန်းဆရာတော် ဦးလက္ခဏမှာ မလှိုင်ပန်းအိုင်ဇာတိဖြစ်သည်။ မန္တလေးမြို့၌ လယ်တီဆရာတော်ကြီးတရားပွဲကျင်းပစဉ်အခါက ဆရာတော်ကြီး၏တရားပွဲသို့ မိမိကျောင်းမှသံဃာများကိုလည်း တရားနာသွားခွင့်မပြုခဲ့ပေ။ သကဒါဂါမ်ဆရာဗကြီး၏ အမတသဘာဝနတ်လမ်းညွှန်။ (စာမျက်နှာ–၂၀၊ ၂၁)။

ဆရာတော်ဘုရားကြီးက–

'ပိုလ်ကုန်းဆရာ၊ ယခု ခုနစ်ညဟောခဲ့သောတရားများသည် တောင်တွင်းကြီး မြို့သူမြို့သားများအတွက်ဖြစ်သည်။ ပိုလ်ကုန်းဆရာအတွက်ဆိုလျှင် သီးခြားဟော ပေဦးမှာပေါ့'

ဟု မိန့်ကြားပြီးလျှင် ဝိပဿနာကျင့်စဉ်တရားကို အဘိဓမ္မာသဘောကျနစွာဖြင့် တရားသားသက်သက် သုံးညတိုင်တိုင် ဆက်လက်ဟောပြောတော်မူရာ၊ တတိယမြောက် နောက်ဆုံးတရားပွဲအပြီးတွင် ပိုလ်ကုန်းဆရာတော်သည် ဆရာတော်ဘုရားကြီးအားဦးချ၍ တောင်တွင်းကြီးမြို့ အနီးရှိတောအရပ်သို့ တစ်ပါးတည်းကေစာ ကြွဝင်သွားတော်မူခဲ့ပါတော့သည်။*[၁]

ဦးသုမန*[၂] ရောက်ရှိခြင်း

လယ်တီဆရာတော်ဘုရားကြီးသည် မုံရွာမြို့ လယ်တီတောရတွင် သီတင်းသုံးနေတော်မူစဉ် ဆရာတော်ဘုရားကြီး၏ရှေ့တော်သို့ သက်တော်(၄၀)၊ သိက္ခာဝါ(၁၉)ဝါရှိပြီးဖြစ်သော ဦးသုမနဘွဲ့မည်ရ ကိုယ်တော်တစ်ပါးသည် ရောက်ရှိလာပါသည်။ ရောက်ရသည့်အကြောင်းမှာ– ဆရာတော်ဘုရားကြီးထံတော်မှ တရားအားထုတ်ရန်နည်းခံလို၍ဖြစ်ပါသည်။ လယ်တီဆရာတော်ဘုရားကြီးသည် ထိုရှင်သုမနကိုယ်တော်၏ပရိယတ်အခြေကိုမေးမြန်းတော်မူရာ၊ ထိုအရှင်မှာ ရဟန်း(၁၅)ဝါအရကပင် ဇာတိရပ်ရွာမှခွာ၍ မန္တလေးမြို့ ဘုရားတိုက်ရှိဆရာတော်ဦးရန်ကုန်၊*[၃] ရွှေရေးဆောင်တိုက်ဆရာတော်ဦးကြည်၊ မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး–စသည်တို့ထံ နည်းခံခဲ့ဖူးကြောင်းသိရသည်။ ပဋိပတ်အနေဖြင့်ကား မုံရွာနယ်တစ်ရိုး၌အလွန်ကျော်စောသော ခင်မွန်ဆရာတော်ကြီး*[၄] နှင့် ရေစကြိုဂူဖြူဆရာတော်ကြီး*[၅] တို့ထံ နည်းခံခဲ့ဖူးကြောင်းသိရပြန်သည်။ သို့ဆိုလျှင် အရှင်သုမနကိုယ်တော်သည် ပရိယတ်ပဋိပတ်အခြေကျနပြီးဖြစ်သော်လည်း လက်တွေ့

---

*[၁] လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၈၂)။

*[၂] နောင်အခါ မုံရွာမြို့အနီး သမ္ဗုဒ္ဓေကစ်ကျော်စေတီတော်ကြီးကိုတည်ထား၍ မိုးညှင်းဆရာတော်ဘုရားကြီးဟူသော ဂုဏ်သတင်းဖြင့် ထင်ရှားကျော်ကြားတော်မူသော မဟာထေရ်ကြီးဖြစ်ပါသည်။ ဤမိုးညှင်းဆရာတော်ကြီးမှာ သက္ကရာဇ်–၁၂၃၄ (အေဒီ–၁၈၇၂)ခုနှစ်ဖွားတော်မူ၍ အသက် ၁၉–နှစ်နှင့် ၄–လတွင် ဖားကူးအနောက်ကျောင်းဆရာတော်ကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ရောက်ရှိသည်။ ဦးဥက္ကံသ၏ မိုးညှင်းထေရုပ္ပတ္တိညွှန့်ပေါင်းကျမ်း၊ အောင်ရတနာပုံနှိပ်တိုက်၊ မုံရွာမြို့။ ၁၃၂၁–ခုနှစ်။ (စာမျက်နှာ ၁၇–၂၅)။

*[၃] ဤဆရာတော်ကြီးသည် မန္တလေးမြို့ ဒက္ခိဏာရာမဘုရားကြီးတိုက်၏ စာလိုက်သံဃာအများဆုံးရှိသော စာချအကျော်အရှင်သုဇာတာဘိဝံသဟုထင်ရှားပြီး၊ ရန်ကုန်မြို့အနီး တိုးကြောင်ကြီးရွာတွင် ၁၂၀၉ (အေဒီ–၁၈၄၇)ခုနှစ်ဖွားတော်မူရာ၊ ဇာတိရပ်ရွာကိုအကြောင်းပြု၍ ဦးရန်ကုန်ဟုခေါ်တွင်ခဲ့ကြခြင်းဖြစ်သည်။ အရှင်ကေလာသ၏ မန္တလေးသာသနာဝင်၊ ဒုတိယတွဲ။ ၁၉၈၂–ခုနှစ်။ (စာမျက်နှာ–၂၃၉)။

*[၄] ခင်မွန်သုံးဂိုဏ်းချုပ်ဆရာတော်ကြီးဦးဇာဂရ(အေဒီ ၁၈၂၈–၁၉၁၄)ဖြစ်ပါသည်။ ဦးကြည်ဖေ၏ ဝိနည်းဓမ္မကံစီရင်ထုံးများ။ ၁၉၈၂–ခုနှစ်။ (စာမျက်နှာ ၁၅၉–၁၆၂)။

*[၅] ပခုက္ကူခရိုင် ရေစကြိုမြို့၌သီတင်းသုံး၍ ရွှေကျင်ဂိုဏ်း၌ထင်ရှားပြီး၊ ဝိနည်းကျွမ်းကျင်မှုနှင့်ဓုတင်ဆောင်ရာတွင် မှတ်တမ်းတင်ထိုက်သောဆရာတော်ကြီးဖြစ်သည်။ ဆရာတော်ကြီး၏ဘွဲ့တော်မှာ အရှင်မေဓာ(အေဒီ ၁၈၂၈–၁၉၁၉)ဖြစ်သည်။ အရှင်ကေလာသ၏ ပခုက္ကူသာသနာဝင်။ ၁၉၆၇–ခုနှစ်။ (စာမျက်နှာ–၂၁၀)။

အားထုတ်စဉ်ကိုအလိုရှိ၍ မိမိထံတော်သို့ချဉ်းကပ်လာခြင်းဖြစ်ကြောင်းသိရှိတော်မူလေရာ၊ လယ်တီဆရာတော်ဘုရားကြီးက အရှင်သုမနအား အောက်ပါသြဝါဒကိုချီးမြှင့်တော်မူခဲ့ပါသည်။

'ငါ့ရှင်သုမန၊ အားထုတ်သောတရားကား မခက်၊ အားထုတ်သူ၏ဝီရိယသာ လိုသည်။ ယခုခေတ်တွင် မဂ်ဖိုလ်ရနိုင်စွမ်းရှိသောဝီရိယကို မထူထောင်ကြဘူးကွဲ့။ အဋ္ဌကထာဆရာတို့ဆုံးမတဲ့အတိုင်း ပန်းဝတ်ရည်ယူအံ့ဟု ပျံသွားလေသောပျား၊ ရေအပြင် ကြာရွက်၌ သွေးကြောဖြတ်သင်သောဆေးသမား၊ အသပြာလေးထောင် ကိုလို၍ ပင့်ကူချည်မျှင်လေးလံအောင် တုတ်ဖြင့်ရစ်ယူသောယောက်ျား၊ လေကြမ်းလျှင် ခါးလယ်ကိုစည်း၍၊ လေညှံ့လျှင်ရွက်ကုန်ဖြန့်၍ ရွက်တိုက်သောလှေသမား၊ အပေါက်ကျဉ်းလှသောဆီကျည်တောက်၌ မဖိတ်စေရအောင် ဆီသွတ်သောယောက်ျားတို့ကဲ့သို့ မဆုတ်မနစ် မတက်ကြွားစေရအောင် စိတ်ကိုစဉ်းစားဆင်ခြင်၍ သမုဒ္ဒရာ၏ ဟိုမှာဘက်ကမ်းကိုကူးအံ့သောယောက်ျား၏ လုံ့လကဲ့သို့လည်းကောင်း၊ စကြာမင်းစည်းစိမ်ကိုယူအံ့သောယောက်ျား၏ အာသာဆန္ဒကဲ့သို့လည်းကောင်း သက်စွန့်ကြိုးစားပြီး အားထုတ်ရမယ်ကွဲ့။

ရှေးအခါက ယောက်ျားနှစ်ဦးတို့ တောကြမ်းခရီးလမ်း၌ ရှားနှစ်ကိုတွေ့၍ 'ဤရှားနှစ်ကိုမီးပွတ်သော် မီးရမည်လော'ဟု တစ်ယောက်ကဆိုလျှင် 'မစင်ပါအောင်ပွတ်သော်လည်း မီးမရ'ဟု တစ်ယောက်ကဆိုသောစကားကိုမခံချင်လှ၍ 'ငါ မစင်ပါအောင်ပွတ်မည်'ဟု အားထုတ်ကြိုးစားပွတ်ရာတွင် အခိုးထလေလေ နှိပ်ပြီးပွတ်လေလေဖြင့် မစင်လဲဖျစ်ခဲနဲ့ပါ မီးလဲရလာသည်ဟူသော ဥဒါန်းစကားအတိုင်း မီးပွတ်သောယောက်ျား၏ အာသာဆန္ဒ လုံ့လပယောဂလောက်မျှမရှိ၊ တရားထူးရမည်ကို သက်နိုးတစ်စုံ၊ သပိတ်တစ်လုံးရမည်လောက်မျှ ဝမ်းမမြောက်၊ ဆွမ်းတစ်အုပ်ရသလောက်မျှ မခင်မင်ကြသော ပုထုဇဉ်ပေတုံး ပိတ်ဖျင်ကိုသာဖြုန်းကြသော ခေါင်းတုံးတွေမှာ မြေကြီးနှင့်ကောင်းကင်အလား ဤတရားမြတ်နှင့်ဝေးလိမ့်မယ်ကွဲ့။

အရေကြွင်းစေ၊ အကြောကြွင်းစေ၊ အသားအသွေး အကုန်ခမ်းခြောက်ပါစေ ရထိုက်သောတရားမျိုးသာမှန်ပါစေ မရသမျှ ငါမနေ၊ မပေါက်မရောက်သမျှ ငါမနေဟု ဝီရိယကိုမလျှော့ဘဲ အားထုတ်ရမယ်ကွဲ့။

ဤသို့ သက်စွန့်ကြိုးစား အားထုတ်ပါလျှင် ခပေါင်းရေကြည်စေ့ ခတ်သောရေသည် ခဏချက်ချင်း စိမ်းမြဖြူစင် ကြည်လင်သန့်ရှင်း တောက်ပထွန်းလင်းသကဲ့သို့ တစ်ခုတည်းသောတရားအာရုံကိုသာ စူးစိုက်စွဲမြဲသော သမာဓိနှင့်ယှဉ်ရသဖြင့် တရားအားထုတ်သူ၏စိတ်အစဉ် သိ၍ လွန်စွာကြည်လင်တောက်ပပြီး အဆင့်ဆင့်မြင့်မြတ်သော တရားထူးတရားမြတ်ကို ရနိုင်တယ်ကွဲ့.'–ဟူ၍ဖြစ်သည်။*၁

*၁ နေရင်းဦးကျော်ဝိဒ၏ မိုးညှင်းမဟာထေရာပဒါန်။ ဒီမိုကရေစီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၁–ခုနှစ်။ (စာမျက်နှာ–၁၀၇)။

အရှင်သုမနသည် လယ်တီဆရာတော်ဘုရားကြီးမိန့်တော်မူသောစကားတို့ကို အလွန်ရှိသေဂါရဝကြီးစွာဖြင့် နားစိုက်နေခဲ့ပြီးနောက် 'ဆရာတော်ဘုရားအမိန့်တော်အတိုင်း အားထုတ်ပါမည်ဘုရား၊ သင့်လျော်ရာ သပ္ပါယဖြစ်ရာဌာနကိုသာ ညွှန်ပြတော်မူပါဘုရား၊ ယခုပင် အမြန်သွားရောက်၍ အားထုတ်ပါတော့မည်'ဟု လျှောက်ထားခဲ့ပါသည်။

ထိုအခါ လယ်တီဆရာတော်ဘုရားကြီးကလည်း အလွန်အားရဝမ်းသာဖြစ်တော်မူ၍ သာဓု အကြိမ်ကြိမ်ခေါ်တော်မူခဲ့ပြီးလျှင် ဒုတိယလယ်တီဆရာတော်အား 'မောင်ဉာဏော၊ ယခု ဒီဦးပဥ္စင်းကို တို့အားထုတ်ခဲ့တဲ့ လက်ပတောင်းတောင်အရပ်သို့ ယခုပင်ပို့စေ'ဟု တာဝန်ပေးတော်မူပါသည်။ ဘုန်းကြီးအရှင်ဉာဏောဘာသလည်း ဆရာတော်ကြီး၏အမိန့်တော်အတိုင်း ချက်ချင်းပင် ထိုအရှင်သုမနကိုယ်တော်အား မုံရွာမြို့အနောက် ချင်းတွင်းမြစ်တစ်ဖက်ကမ်းမှ (၄)မိုင်ခန့်ကွာသော လက်ပတောင်းတောင်ရှိ တောင်ကြားတောရသို့ ပို့ပေးတော်မူခဲ့ပါသည်။

လက်ပတောင်းတောင်တွင် အရှင်သုမနကိုယ်တော်သည် တရားဘာဝနာအလုပ်ကို ပြင်းပြင်းထန်ထန်အားထုတ်နေရာ နေ့စဉ်ဆွမ်းခံထွက်သော်လည်း တစ်ရက်မျှ ဆန်ဆွမ်းကိုမရ၊ ဆတ်ဆွမ်း, လူးဆွမ်းတို့ကိုသာ ဆွမ်းအဖြစ်ရရှိခဲ့ရာ 'ငါအသက်မသေလျှင်တော်ပြီ'ဟု နှလုံးသွင်းဖြင့် ရသရွေ့ဆွမ်းကို မငြီးမငြူဘုဉ်းပေးတော်မူလေသည်။ ရက်မကြာမီမှာပင် ခန္ဓာကိုယ်ကဖောက်ပြန်လာတော့သည်။ ဆတ်ဆွမ်းနှင့် ပဲဟင်း,ချဉ်ပေါင်ဟင်းတို့ကိုသာဘုဉ်းပေးနေရသဖြင့် ဝမ်းလျှောရောဂါဖြစ်လာပြန်ရာ မိုဝဲစရာဆေးဝါးဟူ၍ အထူးမရှိ၊ ထန်းလျက်ရည်သာ ဆေးအဖြစ်ရှိလေသည်။ တောရကျောင်းနှင့်တစ်မိုင်ခန့်ကွာလှမ်းသော ဆွမ်းခံရွာသို့ပင် နေ့စဉ်မကြွနိုင်တော့ပေ။ နောက်ဆုံးတွင် 'ဤအရပ်,ဤကျောင်းနှင့် ဤဒေသကဆွမ်းစသည်တို့သည် အသပ္ပါယ မသင့်မတော်မလျော်ကန်ပတ်ဖြစ်ကပြီ၊ ကြာရှည်နေလျှင် တရားထူးမရဘဲ အသက်ဇီဝိန်သက်ကြွေဖို့ရန်ရှိတော့သည်၊ သို့ဖြစ်၍ ကျေးဇူးရှင်ဆရာတော်ဘုရားကြီးထံပြန်လည်လျှောက်ထားဦးမှ'–ဟုဆုံးဖြတ်ပြီး လယ်တီဆရာတော်ကြီးထံသို့ ပြန်လာခဲ့လေသည်။ ဤအချက်ကိုကြည့်ပါက ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် ထိုလက်ပတောင်းတောင်အရပ်၌ နှစ်ဝါတိုင်တိုင်သီတင်းသုံးနေတော်မူခဲ့စဉ်အခါက ဤမည်သောခဲယဉ်းငြိုငြင်ဆင်းရဲမှုအဝဝနှင့်ရင်ဆိုင်ရပြီး ထိုအရာတို့ကိုသည်းခံတွန်းလှန်တော်မူခဲ့သည်တို့မှာကား ယခုမှန်းဆခါမျှ လွန်စွာကြည်ညိုဖွယ်ဖြစ်ပါတော့သည်။

လယ်တီဆရာတော်ဘုရားကြီးသည် အရှင်သုမနပြန်လာသဖြင့် ရုပ်လက္ခဏာပိန်ချုံးနွမ်းနယ်သည်ကိုမြင်တော်မူသောကြောင့် ဆေးဆရာကိုခေါ်ယူ၍ ရောဂါကိုပျောက်အောင်ကုသပေးသည်။ နာလံထူနိုင်အောင် အားရှိအောင် ပကတိအားအင်ပြည့်စုံ၍ ကျန်းမာရေးအပြည့်အဝဖြစ်အောင် ပြုလုပ်တော်မူရာ တစ်လမျှအတွင်း ထူထူထောင်ထောင်ဖြစ်လာလေသည်။ ဆွမ်းခံသွားနိုင်သည်။ စင်္ကြံလျှောက်၍လည်းကောင်း၊ ထိုင်၍လည်းကောင်း ကြာရှည်စွာတရားအားထုတ်နိုင်လေပြီ။ ထိုအခါ အရှင်သုမနက– 'ဘုရားတပည့်တော် ကျန်းမာရေးပြည့်စုံပါပြီ၊ သင့်လျော်ရာတောကျောင်းတစ်ခုသို့ပို့တော်မူပါ'ဟု လယ်တီဆရာတော်ဘုရားကြီးထံတွင်ခွင့်ပန်တော်မူပြန်လေသည်။

လယ်တီဆရာတော်ဘုရားကြီးကလည်း 'ကိုင်း–ဒါဖြင့် ငါ့ရှင်သုမန၊ ဝိပဿနာဓူရကို မရမနေအားထုတ်မည်ဆိုလျှင် လိုက်နာရမည့် ဩဝါဒ(၆)ချက်ကို မှတ်ထားရမယ်ကွဲ့။

၁။ ဒကာ,ဒကာမတို့ ပင့်ဆွမ်း လိုက်မစားရ၊

၂။ ရဟန်းခံ, ရှင်ပြု ပြုလုပ်ပေးခြင်း၊ အလှူအတန်းလိုက်ခြင်းများ မပြုရ၊

၃။ ဘုန်းကြီးပြန်ပွဲ, အစည်းအဝေးပွဲများ မလိုက်ရ၊

၄။ စကားမပြော တရားမဟောဘဲ (၁၀)နှစ် အားထုတ်ရမည်၊

၅။ ဆယ်နှစ်ပြည့်မှ ကိုယ့်နေရာမှနေ၍ ဟောရ ပြောရမည်၊

၆။ အသက်(၆၀)ပြည့်မှသာ နယ်လှည့်ပြီး တရားဟောရမည်–

ဟူ၍ လေးလေးနက်နက်ဩဝါဒပေးတော်မူရာ ရှင်သုမနသည် လေးလေးမြတ်မြတ် ဦးထိပ်ပန်၍ နာခံပါမည်ဟု အာမဘန္တေခံလိုက်လေသည်။

လယ်တီဆရာတော်ဘုရားကြီးသည် သာဓုအကြိမ်ကြိမ်ခေါ်တော်မူသည်။ ၎င်းနောက် လယ်တီဆရာတော်ဘုရားကြီးသည် တိုက်အုပ်ဆရာတော်ဦးဉာဏောဘာသအား ရှင်သုမနကို မုံရွာမြို့မှ (၆)မိုင်ကွာ မြေနဲ့ရွာ,အောင်သာရွာ နှစ်ရွာ၏အကြားတွင်တည်ရှိသော တောရကျောင်းတိုက်ဟောင်းကြီး*၁သို့ လိုက်ပို့ရန်အမိန့်ပေးသဖြင့် လိုက်ပို့ရပြန်လေသည်။ ထိုအရပ်သို့ရောက်လျှင် ဦးဉာဏောဘာသက တောရကြီးနှင့်အနီးဆုံးဖြစ်သော မြေနဲနှင့်အောင်သာရွာမှ လူကြီးများကိုခေါ်၍ ရှင်သုမန၏ဝတ်ကြီးဝတ်ငယ်တို့ကိုပြုစုကြရန် မှာထားပြီး၊ တိုက်အုပ်ဆရာတော်ဦးဉာဏောဘာသ(ဒုတိယလယ်တီဆရာတော်)သည် မုံရွာမြို့ လယ်တီတောကျောင်းသို့ပြန်ကြွခဲ့လေသည်။

အရှင်သုမနရောက်ရှိနေသော မြေနဲတောရကြီးသည်ကား သစ်ပင်ကြီးတွေ ချုံကြီးတွေ ပိတ်ဆီးကာသန်းလျက်ရှိ၏။ အတွင်းတွင် ဘုရားပျက်များနှင့် ကျောင်းအိုကြီးတစ်ခုရှိသည်။ တောကြီးချုံကြီးတွေများ၍ မည်သူမျှ အနီးသို့မလာဝံ့ကြချေ။ အယုတ်ဆုံးအားဖြင့် နွားကျောင်းသားတို့ပင် မလာဝံ့ကြ။ သူရဲခြောက်ကြမ်းလှသည်၊ နေ့အခါမှာပင် ခြောက်လှန့်သည်ဆိုပြီး မလာဝံ့ကြ။ မြေနဲရွာမှ ဒကာ,ဒကာမများက ဘုန်းကြီးပင့် ကျောင်းအပ်သည်ကားများလှပြီ။ တစ်ပါးမှမနေဝံ့ကြ။ အချို့တစ်ညအိပ်၊ အချို့နှစ်ညအိပ်နှင့်ပြေးကြ၏။ သုံးညအိပ်ဝံ့သူ မရှိသလောက်ရှားသည်။ ညအိပ်နေစဉ်တွင် ဦးခေါင်းကိုလာ၍မ,၏။ ခြေထောက်ဆွဲချ၏။ အသံတွေဆူညံအောင်မြည်၏။ ကျောင်းပေါ်သို့တက်လာပြီး ကြောက်ဖွယ်ရုပ်ကြီးတွေပြကြ၏။ ထို့ကြောင့် ကျောင်းထိုင်ဘုန်းကြီးတို့ထွက်ပြေးရသည်။ ထွက်မပြေးဘဲ ဖွတ်ပေကပ်နေပါမူ တစ်လအတွင်း ပျံလွန်တော်မူသည်ကား များလှ၏။ အချို့ကြောက်လန့်ပြီးလူထွက်ကြသည်။ မြေပွေးမြေဟောက်တို့လည်း အလွန်ပေါသည်။ ညအခါ မီးမပါလျှင် ကျောင်းဝိုင်းအတွင်း ဘယ်နေရာမှမသွားဝံ့အောင်ဖြစ်၏။ မြွေပေါသောကြောင့်ဖြစ်သည်။ ဤတောရကြီးတွင် လယ်တီဆရာတော်ဘုရားကြီး

---

*၁ ဤကျောင်းဟောင်းနေရာကြီးသည် နောင်အခါ မိုးညှင်းသမ္ဗုဒ္ဓေစေတီတော်ဖြစ်ပေါ်လာမည့်နေရာဖြစ်ပါသည်။

ဩဝါဒအတိုင်း ရှင်သုမနကိုယ်တော်တစ်ပါးတည်း သက္ကရာဇ် ၁၂၇၃–ခုနှစ်၊ ဝါတွင်းကာလမှစ၍ ဝါကပ်သီတင်းသုံးတော်မူခဲ့ရပါသည်။*၁

ကျောင်းဒကာကြီးဦးကြယ်၏ ကုသိုလ်

မုံရွာမြို့ လယ်တီတိုက်တာကြီး၏မြေအလှူရှင် ဒါယကာကြီးဦးကြယ်သည် သက္ကရာဇ်– ၁၂၇၃–ခုနှစ် လယ်တီဆရာတော်ဘုရားကြီး မုံရွာမြို့ လယ်တီတောရ၌ ခေတ္တသီတင်းသုံး နေတော်မူခိုက်တွင် လယ်တီကျောင်းတိုက်ကြီးအတွင်း၌ ဆယ်ပင်ကိုးခန်းအကျယ်အဝန်းရှိသော ရတနာဂီရိအုတ်ကျောင်းကြီး၊ ထိုအုတ်ကျောင်းကြီးအတွင်း၌ အစဉ်သီတင်းသုံးနေရန် စကျင် ကျောက်သားရုပ်ပွားတော်ကြီးနှစ်ဆူ၊ လယ်တီတိုက်အတွင်း၌ အုတ်ရေကန်တို့ကို ဘုရားအမှူး ရှိသော သံဃာတော်တို့အားရည်မှန်း၍ ဆောက်လုပ်လှူဒါန်းကာရေစက်သွန်းချခဲ့ပါသည်။ ဤ ကုသိုလ်မှုတို့ချို့ယွင်းပျက်စီးပါက ပြုပြင်ရန်အလို့ငှာ မုံရွာမြို့တွင်း ဆန်တန်းရပ်ရှိ လစဉ်အိမ်လခ ရရှိသော အုတ်တိုက်တစ်လုံးကိုပါလှူဒါန်းခဲ့ပါသည်။ ထိုအုတ်တိုက်မှရရှိသော အိမ်လခစသည်ဖြင့် ရတနာဂီရိအုတ်ကျောင်းအပါအဝင် မိမိ၏ကောင်းမှုတို့ချို့ယွင်းလာလျှင် ပြုပြင်ရန်ဖြစ်သည်။ ဤကုသိုလ်မှုအစုစုတို့အတွက် အောက်ပါကမ္ပည်းကျောက်စာကိုလည်းရေးထိုးထားခဲ့ပါသည်။

နမတ္ထု ဗုဒ္ဓဿ သမေန္တု၊ သဗ္ဗုပဒ္ဒဝါ သိဇ္ဈန္တု၊ သဗ္ဗမင်္ဂလာ။

မုံရွာမြို့ လယ်တီတောကျောင်းတိုက်

မြန်မာသက္ကရာဇ်(၁၂၇၃)ခုနှစ်

'ရတနာဂီရိ' ခေါ် ဆယ်ပင်, ကိုးခဏ်း အုဋ္ဌကျောင်း, နှင့် ကျောင်းတွင်း၌ အမြဲကိန်းဝပ်တော်
မူရန် ဖလ်မှန်ချယ်ဆင်သော ရွှေပလ္လင်တော်နှင့်တကွ မြတ်စွာဘုရားကိုယ် တော်ပွား
ကျောက်သားရုပ်ရှင်တော်နှစ်ဆူ, အုဋ္ဌရေကန်(၁)... မုံရွာမြို့ လေ့ကူးဆန် တန်းရပ်
ကုန်သည် ကျွန်တော်မောင်ကြယ်က၊ ၎င်းအုဋ္ဌကျောင်းနှင့် ရေကန်များကို 'ဗုဒ္ဓပမုခဿ
သံဃဿဒေမ'ဆို၍ ဘုရားအမှူးရှိသော သံဃာတော်မြတ်များအား လှူဒါန်း ပူဇော်ပါသည်။
ဤကျောင်း "ဘုရား" ရေကန်များကို မွမ်းမံရန်စ်ကြစေရန်ငှ်း– နောင် ၎င်း ကျောင်း "ဘုရား"

[မူရင်းအတိုင်း]

*၁ နေရှင်းဦးကောဝိဒ၏ မိုးညှင်းမဟာထေရာပဒါန်။ ၁၉၇၁–ခုနှစ်။ (စာမျက်နှာ–၁၁၅)။



ကျောင်းဒါယကာကြီးဦးကြယ်ကောင်းမှု ရုပ်ပွားတော်နှစ်ဆူ




အလှူကျောက်စာ




ဦးကြယ်ကောင်းမှု ရတနာဂီရိကျောင်းအုတ်တိုက်



မုံရွာမြို့ ဦးကြယ်ကောင်းမှု ကျောင်းမွေတိုက်ကြီး

ရေကန်များ ပျက်စီးယိုယွင်းရှိခဲ့သော် အဆက်ဆက် ထပ်မန်ပြင်ဆင်ရစ်ကြ စေရန် ၎င်း။

အောက်၌ စာတန်းနှင့်ဘော်ပြသော နယ်နိမိတ်လေးရပ်အတွင်းရှိ ဆယ့်တပင် ဆယ်

ခဏ်းရှိ ထောင့်အုဌ်တိုက်ကိုလည်း ရတနာဂီရိကျောင်းမွေတိုက်ပြုလုပ်၍ ၎င်း အုဌ်တိုက်မှ

လစဉ် အခရရှိသော ပစ္စည်းဝတ္ထုများကိုလည်း "ဝိဟာရဿ ဒေမ၊ သေနာ သနဿ ဒေမ" ဆို၍

သာသနာတော်မြတ်၏ အသုံးအဆောင်ဖြစ်စေခြင်းငှာ ရတနာဂီရိကျောင်းအား လှူဒါန်းပါ

၏၊ ကျောင်းမွေတိုက်မှရရှိသော လခ, ပစ္စည်းဝတ္ထုများအတွက် ကပ္ပိယ ကာရကပြုလုပ်

ရွက်ဆောင်မည့်သူကိုလည်း ၎င်း ကျောင်းနေအကြီးအမှူး ဦးစီးနာယကဖြစ်သူ ရဟန်း

တော်က လျော်ရာ ရွေးခြယ်ခန့်အပ်ခြင်း, ပြန်၍နုတ်သိမ်းခြင်း, အခွင့်အာဏာ များ

ကိုလည်း လှူဒါန်းပါ၏။ ၎င်းကျောင်းနေ ရဟန်းတော် သံဃာတော်အရှင်မြတ် တို့လည်း

ဝိနည်းပညတ်တော်အရနှင့် ကျနမှန်ကန်စွာ စီမံပြဌာန်းတော်မူကြပါစေကုန် သတည်း။

ကပ္ပိယကာရက ပြုလုပ်ရွက်ဆောင်သူတို့ကလည်း ၎င်းကျောင်းမွေတိုက်မှ လခ ဝတ္ထုများကို ကောက်ခံ ထိန်းသိမ်းမှုကိစ္စ၊ ၎င်းကျောင်းမွေတိုက်နှင့်တကွ ရတနာဂီရိ

အုဌ်ကျောင်း, ဘုရား, ရေကန်များကို မွမ်းမံမှုကိစ္စ–ပြင်ဆင်မှုကိစ္စ၊ ၎င်းကျောင်း နေ

ရဟန်းတော် သံဃာတော်များကို ပစ္စည်းလေးပါးထောက်ပံ့လှူဒါန်းမှုကိစ္စများ၌ ၎င်း

ကျောင်းနေ အကြီးအမှူး ဦးစီးနာယကဖြစ်သူ ရဟန်းတော်၏ ပြောဆိုပြဌာန်းရာ နာခံ၍

လမ်းမှံ လမ်းဖြောင့် မထောင်မသွေ နေရာတကြဆောင်ရွက်ရစ်ကြပါစေ ကုန်သတည်း။

[မူရင်းအတိုင်း]

ဤ ကျောင်း, ဘုရား, ရေကန်, ကျောင်းမွေတိုက်များတို့ကို လှူဒါန်းရသော
ကုသိုလ်
အစုစု ကောင်းမှုအရပ်ရပ်တို့ကြောင့် နောင်အခါ၌ သာဝတ္ထိပြည် ဇေတဝန်
ကျောင်းကြီး
ဒါယကာ အနာထပိဏ်သေဌေးကြီး ဆုကို ယခုဘဝမှစ၍ ဘဝတိုင်းပြည့်စုံ
ရပါလို
သောဝ်။
မုံရွာမြို့ လေ့ကူး ရာကြီးကုန်းရပ်ရှိ (၁၉၀၉)ခု ၁၉၁၀)ခုနှစ် မုံရွာမြို့မ
မြေပုံဦးပိုင်
နံပါတ်(၂၄) မြေတိုင်းနံပါတ်(၃၁)၊ နံပါတ်ငယ်(၁–၂–၃) ရေိယာပေါင်း ဒသမ=
၇း၄.၆၆,
အရှေ့ဈေးလမ်း– အနောက် ဘတ္တရီတိုက်– တောင် ကန်တော်ကြီးလမ်း–
မြောက်
အမီဆင်တိုက် ၎င်း နယ် လေးရပ်အတွင်းရှိ အဘိုးငွေဒင်္ဂါး(၄၀၀၀) လေးထောင်
တန်
ဆယ်တပင် ဆယ်ခဏ်း ထောင့်အုဋ္ဌတိုက်တစ်ကိုလည်း ‘ရတနာဂီရိအုဋ္ဌ
ကျောင်း၏’
ကျောင်းမွေတိုက်ပြုလုပ်၍ ၎င်းမှရရှိသော ပစ္စည်းဝတ္ထုများကို သာသနာတော်၏
အသုံး
အဆောင်ဖြစ်စေခြင်းငှာ၊ ရတနာဂီရိအုဋ္ဌကျောင်းကိုအစွဲပြု၍ လှူဒါန်းပါသည်။*၁

[မူရင်းအတိုင်း]

ကျောင်းဒါယကာ, ဘုရားဒါယကာကြီး ဦးကြယ်၏ ရတနာဂီရိအုတ်တိုက်သည် လယ်တီတောရကျောင်းအတွင်း၌ ပထမဦးဆုံးအုတ်အဆောက်အအုံဖြစ်သည်။ ဤသို့ အုတ်တိုက်ဆောက်လုပ်သည်ကို လယ်တီဆရာတော်ဘုရားကြီးကား နှစ်သက်တော်မမူပါပေ။ ထိုအချိန်က ဤအုတ်တိုက်ဆောက်လုပ်ခြင်းနှင့်စပ်၍ ဆရာတော်ဘုရားကြီးမိန့်ဆိုသည့်စကားတစ်ရပ်မှာ– ‘အေး၊ မင်းတို့ ဒီအုတ်တိုက်ကို ဘုရားကျောင်းလို့ဆိုတာကိုးကွ၊ ဒီလိုဆိုတော့လည်း ငါက ဘယ်တား

*၁ ဤကျောက်စာကို ၁၃၂၂–ခု နတ်တော်လဆန်း (၁၃)ရက် (အေဒီ–၂၉၊ ၁၁၊ ၁၉၆၀)နေ့ ဘုရားဒါယကာကြီးဦးကြယ်၏ မြေးမန္တ လေးမြို့ ယူနီဘာဆယ်ကိတ်မုန့်တိုက်ပိုင်ရှင် ဦးဘအုန်း၊ ဒေါ်တင်ဦး သားသမီးမြေးတစ်စုတို့က ထပ်မံကမ္ပည်းတင်ထားခြင်းဖြစ်သည်။ ဤကျောက်စာသည် ယခုအခါ မုံရွာမြို့ မဟာလယ်တီကျောင်းတိုက် ရတနာဂီရိအုတ်တိုက်အတွင်း တည်ရှိပါသည်။

နိုင်လိမ့်မယ်တုန်း၊ မင်းတို့ကြိုက်သလိုဆောက်ပေတော့’ ဟူ၍ဖြစ်ပါသည်။[*၁] ထိုစဉ်က လယ်တီတောကျောင်းအတွင်းရှိ လယ်တီဆရာတော်ဘုရားကြီးသီတင်းသုံးရာ စကြံကျောင်း၊ စာချကျောင်းခေါ် ဦးလူနီကျောင်း၊ ဦးဘိုးကြန့်ကျောင်း–စသည့်ကျောင်းများသည် အုတ်ခုံပေါ်၌တည်ထားသော အသားကျောင်းကြီးများသာဖြစ်သည်။

**ဆစတ္တာလီသမဝါကပ်တော်မူခြင်း**

ဤသို့လျှင် လယ်တီဆရာတော်ဘုရားကြီး မြန်မာနိုင်ငံအထက်ပိုင်းဒေသ၌သီတင်းသုံးမွေ့လျော်နေတော်မူရာ ဝါလနီးလာသောအခါ ရန်ကုန်မြို့ ဓမ္မသဝနအသင်းကြီးက ဆရာတော်ဘုရားကြီးအား တရားတော်များနာယူလိုပါကြောင်း ခွင့်ပန်လျှောက်ထားကြသည့်အတွက် ၁၂၇၃–ခုနှစ်၊ ဝါဆိုဦးတွင် လယ်တီဆရာတော်ဘုရားကြီးသည် ရန်ကုန်မြို့သို့ကြွတော်မူခဲ့ပါသည်။ ပြီးလျှင် ပုဇွန်တောင်ရပ်ရှိ ညောင်ကုန်းကျောင်းတိုက်၌ ခေတ္တသီတင်းသုံးနေတော်မူပါသည်။ သက္ကရာဇ် ၁၂၇၃–ခုနှစ်၊ ဝါတွင်းကာလ (အေဒီ ၁၉၁၁–ခုနှစ်၊ ဇူလိုင်လ)တွင် (၄၆)ကြိမ်မြောက် ဆစတ္တာလီသမဝါကို ပုဇွန်တောင်ရပ် ညောင်ကုန်းကျောင်းမှာပင်ကပ်ဆိုတော်မူခဲ့ပါသည်။

**သီဟိုဠ်မှအမေးပုစ္ဆာ**

လယ်တီဆရာတော်ဘုရားကြီး ရန်ကုန်မြို့ ပုဇွန်တောင်ရပ် ညောင်ကုန်းကျောင်းတိုက်၌ ဝါကပ်သီတင်းသုံးနေတော်မူစဉ်အခါ သီဟိုဠ်ကျွန်း ဗေရုဝလရွာနေ ပေါဠိုသိညောပြနာနန္ဒမည်ရှိသော ဥပါသကာတစ်ဦးမေးလျှောက်သော သန္ဒေသကထာလျှောက်ထားလွှာတစ်စောင်သည် ဆရာတော်ကြီးထံတော်သို့ရောက်ရှိခဲ့လေသည်။ ထိုပုစ္ဆာသန္ဒေသကထာမှာ အောက်ပါအတိုင်းဖြစ်သည်။

သီဟိုဠ်ကျွန်း ဗေရုဝလရွာနေ ဥပါသကာတစ်ဦးက<br>ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးထံသို့<br>ရေးသားပေးပို့လျှောက်ထားသော<br>ပုစ္ဆာသန္ဒေသကထာ။

မရမ္မရဋ္ဌေပိ လက်ာဒီပေပိ ပတ္ထဋကိတ္တိဃောသဿသာဋ္ဌကထာ တိပိဋကဓရဿ လယ်တီအရညဝါသိနော မဟာထေရဿပါဒေ ဝန္ဒိတွာ သဂါရဝံ နိဝေဒယာမိ။

ဣဒါနိ ဘန္တေ လက်ာဒီပေ ပဋိမာဃရေသု အမှာကံ ဂေါတမဗုဒ္ဓဿ ပဋိမံ မဇ္ဈေ မဟန္တံ ကတွာ ဗန္ဓိတွာ ဒီပင်္ကရာဒီနံ စတုဝီသတိဗုဒ္ဓါနံ ပဋိမာယော တိတ္တိပဿေသု ခုဒ္ဒကာ ကာရေန ဗန္ဓန္တိပိ စိတ္တကမ္မံပိ ကရောန္တိ။

---

*၁ မောင်လှမြတ်(မုံရွာ)၏ လယ်တီဆရာတော်နှင့် မဟာလယ်တီကျောက်စာ။ (လက်နှိပ်စက်မူ)။ (စာမျက်နှာ–၃၆)။

ဂေါတမဗုဒ္ဓပဋိမာ ပန အဋ္ဌော ဂဗ္ဘေ ဟောတိ၊ အညာ ပဋိမာယော အဋ္ဌောဂဗ္ဘတော ဗဟိ, ဒုတိယဂဗ္ဘေ, အဋ္ဌောဂဗ္ဘဿ သာမန္တာဝါ ဟောန္တိ။

ဤဒိသံ ကရဏံ ဝါ ကာရာပနံ ဝါ ဒီပင်္ကရာဒီသု ဘဂဝန္တေသု အဂါရဝေါတိ ကေစ္စေ ဝဒန္တိ။ ။ကေစ္စေ ပန နတ္ထေတ္ထ အဂါရဝေါတိ ဝဒန္တိ။

ဣမဿ ဝါဒဿ ယထာ ဓမ္မိကံ တုမှာကံ ဝိနိစ္ဆယံ ဣစ္ဆာမ ဘန္တေ အမှာကံ အနုကမ္ပာယ သခ်ေပေနေဝ ဝိနိစ္ဆယံ ဒေထာတိ သဂါရဝံ ယာစာမ။

လိခိတွာ ပေသိတမိဒံ လင်္ကာဒီပေ ဗေရုဝဋ္ဌဂါမေ ဝသန္တေန 'ပေါဠိ သိညောပြနာနန္ဒ' နာမိကေန ဥပါသကေနာတိ။*၁

အထက်ဖော်ပြပါ ပုစ္ဆာသန္ဒေသကထာ၏မြန်မာပြန်မှာ အောက်ပါအတိုင်းဖြစ်သည်။

မြန်မာနိုင်ငံ၌လည်းကောင်း, သီဟိုဠ်ကျွန်း၌လည်းကောင်း ပျံ့နှံ့ကျော်စောသော ဂုဏ်သတင်းသံရှိပေသော အဋ္ဌကထာနှင့်တကွ ပိဋကတ်သုံးပုံကို ဆောင်တော်မူပေသော လယ်တီတောကျောင်း၌ သီတင်းသုံးတော်မူလေ့ရှိပေသော ဆရာတော်မထေရ်မြတ်ကြီး ခြေတော်တို့ကိုရှိခိုး၍ ရှိသေခြင်းနှင့်တကွ လျှောက်ထားပါသည်ဘုရား။

အရှင်ဘုရား။ ယခုအခါ သီဟိုဠ်ကျွန်း ဘုရားကျောင်းတို့၌ တပည့်တော်တို့၏ ဂေါတမဘုရားရုပ်ပွားတော်ကို အလယ်ဗဟို၌ ကြီးကျယ်စွာပြုလုပ်ဖွဲ့ထား၍ ဒီပင်္ကရာ အစရှိသော နှစ်ကျိပ်လေးဆူသော ဘုရားရှင်တို့၏ ဆင်းတုတော်တို့ကိုကား တိုက်နံရံတို့၌ သေးငယ်သောအခြင်းအရာအားဖြင့် ပြုလုပ်ဖွဲ့ထားကြကုန်၏။ ပန်းချီဆေးရုပ်မျှကိုသော်လည်း ပြုလုပ်ထားကြကုန်၏။

ထို့ပြင် ဂေါတမဘုရားရှင်၏ရုပ်တုတော်သည် တိုက်ခန်းအတွင်း၌တည်ရှိတော်မူ၏။ အခြားသော ဘုရားရှင်တို့၏ရုပ်တုတော်တို့သည်ကား အတွင်းတိုက်ခန်းမကြီး၏ အပြင်ဘက်၌သော်လည်းကောင်း၊ ဒုတိယတိုက်ခန်း၌သော်လည်းကောင်း၊ အတွင်းတိုက်ခန်းမကြီး၏ ထက်ဝန်းကျင်နံရံတို့၌သော်လည်းကောင်း တည်ရှိတော်မူကြကုန်၏။

ဤကဲ့သို့ ပြုလုပ်ခြင်း,ပြုလုပ်စေခြင်းသည် ဒီပင်္ကရာအစရှိကုန်သော ဘုရားတို့၌ မရိုမသေဖြစ်သည်ဟု အချို့သောသူတို့က ပြောဆိုကြပါသည်။ အချို့သော သူတို့သည်ကား ဤအရာမျိုး၌ မရိုမသေမှု မဖြစ်နိုင်ဟု ပြောဆိုကြပါသည်။

*၁ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ပါဠိစကားသင်-စာရေးသင်။ လယ်တီပဏ္ဍိတပညာတိုက်၊ ရန်ကုန်မြို့။ ၁၉၅၃-ခုနှစ်။ (စာမျက်နှာ-၄၅၆)။

ဤလျှောက်ထားခဲ့သောဝါဒနှစ်မျိုး၏ တရားနှင့်သင့်လျော်သော အရှင်ဘုရား၏အဆုံးအဖြတ်ကို အလိုရှိကြပါသည် အရှင်ဘုရား။ တပည့်တော်တို့အား သနားတော်မူပါသဖြင့် အကျဉ်းချုပ်အဆုံးအဖြတ်ကို ပေးတော်မူပါကုန်ဟူ၍ ရှိသေခြင်းနှင့်တကွ တောင်းပန်ကြပါသည်ဘုရား။

ဤလျှောက်လွှာကို သီဟိုဠ်ကျွန်း ဗေရုဝဋ္ဋရွာဌ်နေထိုင်လေ့ရှိသော 'ပေါဒ်ိ သိညောပြနာနန္ဒ' အမည်ရှိသော ဥပါသကာက ရေးသား၍ ပို့ဆက်လျှောက်ထားအပ်သော လျှောက်လွှာဖြစ်ပါသတည်း။*၁

အထက်ပါ အမေးပုစ္ဆာသန္ဒေသကထာသည် လယ်တီဆရာတော်ထံတော်သို့ ၁၂၇၃–ခုနှစ်၊ ဝါဆိုလပြည့်ကျော် ၁–ရက် (အေဒီ–၁၁၊ ဇူလိုင်လ၊ ၁၉၁၁–ခုနှစ်)တွင်ရောက်ရှိခဲ့ခြင်းဖြစ်ပြီး၊ ထိုအမေးသန္ဒေသကထာ ရလျှင်ရချင်းပင် ဆရာတော်ဘုရားကြီးက အောက်ပါဝိနိစ္ဆယသန္ဒေသကထာအဖြေလွှာကို ဖြေဆိုတော်မူရာ ဝါဆိုလပြည့်ကျော် ၃–ရက် (အေဒီ–၁၃၊ ဇူလိုင်လ၊ ၁၉၁၁–ခုနှစ်)တွင် ပြီးစီးခဲ့ပါသည်။

ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးက
အကျဉ်းအားဖြင့် ဖြေကြားရေးပို့သော
ဝိနိစ္ဆယသန္ဒေသကထာ။

ဥပါသက။ ။'သဒ္ဒေပေန ဝိနိစ္ဆယံ ဒေထာ'တိ ဝုတ္တတ္တာ သဒ္ဒေပဝိနိစ္ဆယံ ဝဒါမ။

ယံ ဝုတ္တံ 'ဤဒိသံကရဏံ ဝါ ကာရာပနံ ဝါ ဒီပင်္ကရာဒီသု ဘဂဝန္တေသု အဂါရဝေါ တိ ကေစ္စေ ဝဒန္တိ'တိ တတြာယံ တေသံ ကေစ္စိယာနံ အဓိပ္ပါယော။

ယတ္ထ မဟာထေရာ အနုထေရာ စ ဘိက္ခူ ကေတော သန္နိပတိတာ ဟောန္တိ။ တသ္မိံ သန္နိပါတေ ယော ဝန္ဒနံ ဝါ ကရောတိ ကိစ္စံ ပရိက္ခာရံ ဝါ ဒေတိ၊ သော စေ သင်္ကောတိ မဟာထေရေသု အတိရေကံ ကရောတိ၊ သဗ္ဗေသံ အသင်္ကောန္တော မဟာထေရာနံ ကရောတိ၊ က္လဒံ ထေရဂရုကာနံ ပကတိ စာရိတ္တံ။ ။တထာ ပန အကတွာ တဗ္ဗိပရိတေန ကရောတိ။ မဟာထေရေသု ဂရုံ အကရောန္တောနာမ ဟောတိ။

တတ္ထ မဟာထေရာဝိယ ပေါရာဏကာနံ ဒီပင်္ကရာဒီနံ သမ္မုဒ္ဓါနံ ပဋိမာယော ဒဋ္ဌဗ္ဗာ။ အနုထေရာ ဝိယ ပစ္ဆိမကာနံ သမ္မုဒ္ဓါနံ ပဋိမာယော ဒဋ္ဌဗ္ဗာ။ ။တာသု အမှာကံ ဘဂဝတော ပဋိမာ သဗ္ဗပစ္ဆိမာ ဟောတိ။ သဗ္ဗပစ္ဆိမာယ ပန တာယ

*၁ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ဘာသာပြန်ဆိုချက်ဖြစ်သည်။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ပါဠိစကားသင်–စာရေးသင်။ ၁၉၅၃–ခုနှစ်။ (စာမျက်နှာ–၄၆၀၊ ၄၆၁)။

အတိရေကံ ကရောန္တော ဒီပင်္ကရာဒီသု ဘဂဝန္တေသုပိ တပ္ပဋိမာသုပိ ဂရုံ အကရောန္တော နာမ ဟောတီ’တိ။

ယမ္ပန ဝုတ္တံ ‘ကေစ္စေပန န တွေဝေတ္တ အဂါရဝေါ တိ ဝဒန္တိ’တိ။ တတြာယံ တေသံ ကေစ္စိယာနံ အဓိပ္ပါယော။

ဗုဒ္ဓါနံ အနန္တဂုဏော နာမ ဒုဝိဓာ ဟောန္တိ။ သီလာဒိဂုဏာ စ, ကတူပကာရဂုဏာ စ။ ။တတ္ထ ‘သန္တိ မေ ဗုဒ္ဓါ ဘဂဝန္တော အရဟန္တော သမ္မာသမ္ဗုဒ္ဓါအနန္တဂုဏာ’တိ ဝေမာဒီသု သီလာဒိဂုဏော ဝေဒိတဗ္ဗော။

ဗုဒ္ဓဂုဏော အနန္တော, ဓမ္မဂုဏော အနန္တော, သံဃဂုဏော အနန္တော, မာတာပိတုဂုဏော အနန္တော, အာစရိယဂုဏော အနန္တော–တိ ဝေမာဒီသု ကတူပကာရဂုဏာဝေဒိတဗ္ဗာ။

နဟိ မာတာပိတုဂုဏော အနန္တောတိ ဧတ္ထသီလာဒိဂုဏော အဓိပ္ပေတော။ မာတာပိတူနံ ပန ပုတ္တေသု ကတူပကာရဂုဏော ဝေ အဓိပ္ပေတော။ သောစဂုဏော အတ္တနော အတ္တနော ပုတ္တာနံဝေ သာဓာရဏော န အညေသန္တိ။

တေသု ပန ဒုဝိဓေသု အနန္တဂုဏေသု သဗ္ဗဗုဒ္ဓါနံ သီလာဒိဂုဏာ သဒ္ဓါသမ္ပန္နာနံ သဗ္ဗေသံပိ ဒေဝမနုဿာနံ သာဓာရဏာ ဟောန္တိ။ ကတူပကာရဂုဏာ ပန အတ္တနော သာသနေ သာဝကာနံ ဝေ သာဓာရဏော။ ယထာ တံ မာတာပိတုဂုဏော အတ္တနော အတ္တနော ပုတ္တာနံ ဝါတိ။

တတ္ထ ကေသဉ္စိ သန္တိပါတေ ဗဟူနံ မဟာထေရာနုထေရာနံ မဇ္ဈေ အတ္တနော အာစရိယော အနုထေရော ဟောတိ။ တဿ သိဿော အာစရိယဿ ကတူပကာရံ အနန္တဂုဏံ အာရဗ္ဘ တသ္မိံ ထေရေ အတိရေကတရံ ကတ္វာ ဝန္ဒန္တော တံတံ ပရိက္ခာရံ ဝါ ဒေန္တော မဟာထေရေသု အဂါရဝံ ကရောတီတိ နဝတ္တဗ္ဗော။

တထာ ကေသဉ္စိ သန္တိပါတေ ဗဟူနံ ဇေဋ္ဌကာနံ မဇ္ဈေ အတ္တနော မာတာဝါ ပိတာ ဝါ အနုဇေဋ္ဌကော ဟောတိ။ တဿ ပုတ္တော အတ္တနော မာတုယာ ဝါ ပိတုနော ဝါ ကတူပကာရံ အနန္တဂုဏံ အာရဗ္ဘ တသ္မိံ အတိရေကတရံ ကတ္វာ ဝန္ဒန္တော တံတံ သက္ကာရံ ဝါ ကရောန္တော အညေသု ဇေဋ္ဌကေသု အဂါရဝံ ကရောတီတိ နဝတ္တဗ္ဗော။

တထာ ကေသဉ္စိ ဉာဏေ ဒီပင်္ကရာဒီနံ ပဋ္ဌဝိသတိ ဗုဒ္ဓပဋိမာနံမဇ္ဈေ အမှာကံ ဘဂဝတော ကတူပကာရံ အနန္တဂုဏံ အာရဗ္ဘ တဿာပဋိမာယ အတိရေကံ ကရောန္တော ဒီပင်္ကရာဒီသု ဘဂဝန္တေသု အဂါရဝံ ကရောတီတိ နဝတ္တဗ္ဗော။

ကြဒံပိ ဟိ ကေ ပကတိ စာရိတ္တမေဝ ဟောတိ။ ယဒိဒံဗဟူနံ ပူဇနီယပုဂ္ဂလာနံ မဇ္ဈေပိ အတ္တနောဥပကာရံ ကရောန္တေ ပုဂ္ဂလေ ကတညုတာကတဝေဒိတာ မင်္ဂလဝမုနေန အတိရေကပူဇာ ကရဏာန္တိ။

တ္တောဝတာ ဒွိသု ဝါဒေသု အယံနာမ ဝါဒေါ ယုတ္တိတော ဗလဝါ ဟောတိ သက္ကာ ဝိညာတုံ’ တိ။[*၁]

အထက်ဖော်ပြပါ လယ်တီဆရာတော်ဘုရားကြီး၏ ဝိနိစ္ဆယသန္ဒေသကထာ၏ မြန်မာပြန်ဆိုချက်မှာလည်း အောက်ပါအတိုင်းဖြစ်ပါသည်။

အို ဥပါသကာ။ ။အကျဉ်းအားဖြင့် အဆုံးအဖြတ်ကိုပေးပါကုန်ဟူ၍ လျှောက်ထားအပ်သောကြောင့် အကျဉ်းချုပ်အဆုံးအဖြတ်ကို ဆိုပါကုန်အံ့။

‘ဤကဲ့သို့ ပြုလုပ်ခြင်း,ပြုလုပ်စေခြင်းသည် ဒီပင်္ကရာ အစရှိကုန်သော ဘုရားတို့၌ မရှိမသေဖြစ်သည်ဟု အချို့သောသူတို့က ပြောဆိုကြပါသည်’ ဟူ၍ အကြင်စကားကို သင်၏လျှောက်လွှာ၌ဆိုအပ်၏၊ ထိုစကားရပ်၌ အချို့ကုန်သော ထိုသူတို့၏ ဆိုလိုရင်းအဓိပ္ပာယ်ကား ဤသို့တည်း။

အကြင်အရပ်ဌာန၌ ထေရ်ကြီး, ထေရ်ငယ် ဖြစ်ကြကုန်သော ရဟန်းတော်တို့သည် တပေါင်းတည်း စည်းဝေးတော်မူနေကြကုန်၏။ ထိုအစည်းအဝေး၌ အကြင်သူသည် ရှိခိုးခြင်းကိုသော်လည်းပြု၏၊ တစ်စုံတစ်ခုသော ပရိက္ခရာကိုသော်လည်း လှူဒါန်း၏၊ ထိုသူသည် အကယ်၍ တတ်နိုင်ပါမူကား မဟာထေရ်မြတ်ကြီးတို့၌ ပိုမိုသာလွန်စွာရှိခိုးခြင်း လှူဒါန်းခြင်းအမှုကိုပြု၏၊ အစည်းအဝေး၌ ရှိရှိသမျှသော ရဟန်းတို့အား ရှိခိုးလှူဒါန်းခြင်းအမှုကို မပြုနိုင်ပါလျှင် မဟာထေရ်မြတ်ကြီးတို့အားသာ ရှိခိုးလှူဒါန်းမှုကိုပြုပေလိမ့်မည်။ ဤကဲ့သို့ပြုလုပ်ခြင်းသည် သက်ကြီး, ဝါကြီး, မထေရ်ကြီးတို့ကို အလေးအမြတ် ပြုလေ့ရှိကြကုန်သောသူတို့၏ ပကတိသဘော အလေ့အကျင့်ဖြစ်ပေသည်။ ။ထိုကဲ့သို့မပြုဘဲ ဆိုခဲ့ပြီးသည်နှင့် ဆန့်ကျင်ဘက်ပြုလုပ်ခဲ့ပါလျှင် မဟာထေရ်မြတ်ကြီးတို့၌ အရိုအသေမပြုသည် မည်ပေ၏။

ထိုဥပမာစကားရပ်၌ ရှေး၌ပွင့်တော်မူကြကုန်ပြီးသော ဒီပင်္ကရာ အစရှိကုန်သော ဘုရားရှင်တို့၏ရုပ်ပွားတော်တို့ကို သက်ဝါကြီးရင့်ဖြစ်သော မဟာထေရ်ကြီးတို့ကဲ့သို့ မှတ်အပ်ကုန်၏။ နောက်နောက်၌ပွင့်တော်မူကြကုန်သော ဘုရားရှင်တို့၏ရုပ်ပွားတော်တို့ကို မထေရ်ငယ်တို့ကဲ့သို့ မှတ်အပ်ကုန်၏။ ထိုရုပ်ပွားတော်တို့တွင် ငါတို့၏ ဂေါတမဘုရားရုပ်ပွားတော်သည် အလုံးစုံတို့အောက် အငယ်ဆုံးဖြစ်တော်မူ၏။ ထိုအလုံးစုံတို့အောက် အငယ်ဆုံးဖြစ်သော ရုပ်ပွားတော်၌ ပိုမိုသာလွန်စွာပြုလုပ်ခဲ့ပါလျှင် ဒီပင်္ကရာ အစရှိသော ဘုရားရှင်တို့၌လည်းကောင်း၊ ထိုဘုရားရှင်တို့၏ ရုပ်ပွားတော်တို့၌လည်းကောင်း ရိုသေမှုကို မပြုသည်မည်လေ၏။ ဤသည်ကား အချို့သောသူတို့၏ဆိုလိုရင်းအဓိပ္ပာယ်ပေတည်း။

---

*၁ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ပါဠိစကားသင်-စာရေးသင်။ လယ်တီပဏ္ဍိတပညာတိုက်၊ ရန်ကုန်မြို့။ ၁၉၅၃-ခုနှစ်။ (စာမျက်နှာ-၄၆၁၊ ၄၆၄)။

ထို့ပြင်တပါး 'အချို့သောသူတို့သည်ကား ဤကဲ့သို့သောအရာမျိုး၌ မရှိမသေမှု မဖြစ်နိုင်ဟု ပြောဆိုကြပါသည်' ဟူ၍ သင်၏လျှောက်လွှာ၌ အကြင်စကားကို ဆိုအပ်၏။ ထိုစကားရပ်၌ အချို့ကုန်သော ထိုသူတို့၏ဆိုလိုရင်းအဓိပ္ပာယ်ကား ဤသို့တည်း။

ဘုရားရှင်တို့၏အနန္တဂုဏ်တော်တို့သည် သီလစသောဂုဏ်တော်, ကျေးဇူးပြုခြင်းဂုဏ်တော်–ဟူ၍ နှစ်မျိုးရှိကုန်၏။ ထိုနှစ်မျိုးတို့တွင် 'သတ္တိမေဗုဒ္ဓါ ဘဂဝန္တော အရဟန္တော သမ္မာသမ္ဗုဒ္ဓါ အနန္တဂုဏာ' ဤသို့ စသည်ဖြင့်ဆိုအပ်သော အရာတို့၌ သီလစသောဂုဏ်တော်ကို သိမှတ်အပ်၏။

ဗုဒ္ဓဂုဏော အနန္တော, ဓမ္မဂုဏော အနန္တော, သံဃဂုဏော အနန္တော, မာတာပိတုဂုဏော အနန္တော, အာစရိယဂုဏော အနန္တော–ဤသို့စသည်ဖြင့်ဆိုအပ်သော အရာရှိတို့၌ ကျေးဇူးပြုခြင်းဂုဏ်တို့ကို သိမှတ်အပ်ကုန်၏။

ထိုစကားမှန်၏။ 'မာတာပိတုဂုဏော အနန္တော'ဆိုရာ၌ သီလစသောဂုဏ်ကို အလိုမရှိအပ်။ စင်စစ်သော်ကား မိဘတို့က သားတို့၌ကျေးဇူးပြုမှု ဂုဏ်ကျေးဇူးကိုသာ အလိုရှိအပ်၏။ ထိုကျေးဇူးပြုမှုဂုဏ်သည်လည်း မိမိ မိမိတို့၏ သားသမီးများနှင့်သာ ဆက်ဆံ၏။ တပါးသောပုဂ္ဂိုလ်များနှင့်ကား မဆက်ဆံချေ။

ထိုအနန္တဂုဏ်နှစ်မျိုးတို့တွင် အလုံးစုံသောဘုရားရှင်တို့၏ သီလစသောဂုဏ်တို့သည် သဒ္ဒါတရားနှင့်ပြည့်စုံကြကုန်သော နတ်လူအလုံးစုံတို့နှင့် အကုန်ဆက်ဆံကြကုန်၏။ ကျေးဇူးပြုမှုဂုဏ်တော်တို့သည်ကား ကိုယ်တော် ကိုယ်တော်မြတ်တို့၏ ဆိုင်ရာသာသနာတော်အတွင်း၌ ကြုံကြိုက်ကြကုန်သော တပည့်သာဝကတို့နှင့်သာ သက်ဆိုင်ကုန်၏။ ဥပမာအားဖြင့်သော်ကား၊ မိဘတို့၏ဂုဏ်ကျေးဇူးသည် မိမိတို့၏ သားသမီးတို့နှင့်သာ သက်ဆိုင်လေဘိသကဲ့သို့တည်း။

ထိုသံဃအစည်းအဝေးကြီး၌ များစွာကုန်သော ပုဂ္ဂိုလ်တို့၏အလယ်တွင် မိမိ၏ ဆရာသည် မထေရ်ငယ်ကလေးဖြစ်၍နေ၏၊ ထိုမထေရ်ငယ်၏တပည့်သည် ဆရာက ကျေးဇူးပြုခဲ့သော အနန္တဂုဏ်ကို အာရုံပြု၍ ထိုမထေရ်ငယ်၌ အတိုင်းထက်အလွန် ပြုလုပ်ကာ ရှိခိုးသော်လည်းကောင်း, ထိုထိုပရိက္ခရာအမျိုးမျိုးကို လှူဒါန်းသော်လည်းကောင်း မဟာထေရ်တို့၌ မရှိမသေပြုလုပ်သည်ဟု မဆိုထိုက်။

ထို့နည်းတူစွာ၊ အစည်းအဝေးတစ်ခု၌ သက်ကြီးရွယ်ရင့် လူကြီးပေါင်းများစွာ တို့၏အလယ်တွင် မိမိ၏ မိခင် ဘခင်နှစ်ပါးသည် အငယ်ဆုံးဖြစ်၍နေ၏။ ထိုမိဘ နှစ်ပါး၏သားသည် ကိုယ့်မိဘနှစ်ပါး၏အနန္တ ကျေးဇူးဂုဏ်ကိုအာရုံပြု၍ ထိုမိဘနှစ်ပါး အပေါ်၌ အတိုင်းထက်အလွန်ပြု၍ ရှိခိုးသော်လည်းကောင်း, ထိုထိုပူဇော်သကာကို ပြုလုပ်သော်လည်းကောင်း, ကိုယ့်မိဘမှတစ်ပါးသော သက်ကြီးရွယ်ရင့်တို့အပေါ်၌ မရှိမသေပြုသည်ဟု မဆိုထိုက်။

ထိုနည်းအတိုင်းပင်လျှင် တစ်ခုသောနေရာဌာန၌ ဒီပင်္ကရာအစရှိကုန်သော နှစ်ကျိပ်ငါးဆူကုန်သော ဘုရားရုပ်တုတို့၏အလယ်၌ ငါတို့ဘုရားရှင်၏အနန္တ ကျေးဇူး ဂုဏ်ကိုအာရုံပြု၍ ထိုဂေါတမဘုရား၏ရုပ်ပွားတော်မြတ်၌ သာလွန်ပိုမိုစွာ ရှိခိုးပူဇော်မှုကိုပြုသည်ရှိသော် ဒီပင်္ကရာစသောဘုရားရှင်တို့၌ မရိုမသေပြုသည်ဟု မဆိုထိုက်။

ရှိခိုးပူဇော်ထိုက်သော ပုဂ္ဂိုလ်ပေါင်းများစွာတို့အလယ်၌ မိမိအားကျေးဇူးပြုဖူးပေသော ပုဂ္ဂိုလ်အပေါ်၌ ကတညုတာ, ကတဝေဒီ မင်္ဂလာကို ပွားများသောသဘော အားဖြင့် သာလွန်ပိုမိုစွာ ပူဇော်မှုကိုပြုခြင်းသည် လူတို့၏ပကတိအလေ့အကျင့် သဘောရိုးကြီးဖြစ်ပေသတည်း။

ဤမျှလောက် ပြဆိုခဲ့ပြီးသော စကားရပ်ဖြင့် ဝါဒနှစ်ပါးတို့တွင် ဤနောက်ဝါဒ သည် အသင့်ယုတ္တိအားဖြင့် ခိုင်မာအားရှိသည်ဟု သိမှတ်ခြင်းငှာ သင့်လျော်ပေ သတည်း။*၁

ရန်ကုန်မြို့ပေါ်တရားပွဲများ

ရန်ကုန်မြို့ ပုဇွန်တောင်ရပ် ညောင်ကုန်းကျောင်းတိုက်တွင် လယ်တီဆရာတော်ဘုရားကြီး ဝါကပ်နေတော်မူစဉ်အတွင်း ဓမ္မသဝနအသင်းကကြီးမှူး၍ ဝါဆိုလပြည့်ကျော် ၁၃–ရက် (အေဒီ–၂၃၊ ဇူလိုင်လ၊ ၁၉၁၁–ခုနှစ်) မှ ဝါခေါင်လဆန်း ၁–ရက် (အေဒီ–၂၆၊ ဇူလိုင်လ၊ ၁၉၁၁–ခုနှစ်) အထိ လေးညတိုင်တိုင် ရန်ကုန်မြို့ သိမ်ကြီးဈေးအနီးရှိ သူဌေးဦးကြွက်နီ၏တန်ဆောင်းတွင် လယ်တီဆရာတော်ဘုရားကြီး၏ 'အာယတနတစ်ဆယ့်နှစ်ပါးတရားပွဲကြီး' ကို ခမ်းနားစွာကျင်းပခဲ့လေသည်။

ထိုတရားပွဲများတွင် လယ်တီဆရာတော်ဘုရားကြီးက သဿတဒိဋ္ဌိနှင့် ဥစ္ဆေဒဒိဋ္ဌိနှစ်ပါးတို့ကို ပယ်ရှင်းပေးနိုင်မည့် သဠာယတနဟူသော အတွင်းအာယတနခြောက်ပါးတရားကို အကျယ်တဝင့် ရှင်းလင်းဟောကြားတော်မူပါသည်။

တရားနာပရိသတ်အပေါင်းတို့က အတွင်းအာယတနတို့၏သဘောကိုသိရှိကြရပြီးသည့် နောက် အပြင်အာယတနခြောက်ပါးအကြောင်းကိုသိလိုကြပါကြောင်း လျှောက်ထားတောင်းပန် ကြပြန်ပါသဖြင့် ဝါခေါင်လဆန်း ၂–ရက်မှ ဝါခေါင်လဆန်း ၅–ရက်နေ့အထိ (အေဒီ–၂၇၊ ဇူလိုင်လ၊ ၁၉၁၁ – ၃၀၊ ဇူလိုင်လ၊ ၁၉၁၁)ခုနှစ်အထိ လေးညတိုင်တိုင် ပုဇွန်တောင် စင်ကာပူ ရပ်ကွက်ရှိ ဓမ္မသဝနအသင်းဓမ္မာရုံကြီးတွင် ဗာဟိရာယတနခေါ် အပြင်အာယတနခြောက်ပါး အကြောင်းတို့ စားပြပိုလ်ကြီးနှင့်တူပုံကို ကျယ်ဝန်းစွာဟောတော်မူရပြန်ပါသည်။

*၁ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ဘာသာပြန်ဆိုချက်ဖြစ်သည်။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ပါဠိစကားသင်–စာရေးသင်။ ၁၉၅၃–ခုနှစ်။ (စာမျက်နှာ ၄၆၄–၄၆၇)။

လယ်တီဆရာတော်ဘုရားကြီးသည် ရန်ကုန်မြို့၌ဝါကပ်တော်မူစဉ်အတွင်း သာယာဝတီ ဒိစကြိတ် စစ်ကွင်းမြို့*၁ သို့လည်း တရားဟောရန်ကြွတော်မူပါသည်။

## ဦးဓမ္မစာရီ*၂ ရောက်ရှိလာခြင်း

ထို ၁၂၇၃–ခုနှစ်၊ လယ်တီဆရာတော်ဘုရားကြီး ရန်ကုန်မြို့၌သီတင်းသုံးနေတော်မူစဉ် အသက်(၄၂)နှစ်အရွယ် အစိုးရရုံးမှ ဘီလစ်စာရေးကြီးဦးနှစ်သည် အစိုးရဝန်ထမ်းဘဝမှအပြီးအပိုင် နုတ်ထွက်၊ သားနှစ်ဦးကိုပါစွန့်ခွာပြီး သာသနာ့ဘောင်သို့ဝင်ရောက်ခဲ့လေသည်။ ဘွဲ့ကား ဦးဓမ္မစာရီ ဖြစ်သည်။ ဤဦးဓမ္မစာရီသည် လူဝတ်၌ရှိစဉ်ကပင် မကြာမကြာဒုလ္လဘဝတ်ခြင်း၊ *၃ အာနာပါန ကမ္မဋ္ဌာန်းအားထုတ်လေ့ရှိခြင်း၊ အဘိဓမ္မာတရား၌စိတ်ဝင်တစားလေ့လာခြင်း၊ အဘိဓမ္မာတရား၌ စိတ်ဝင်စားသူတို့ကိုလည်း ပြန်လည်ပို့ချပေးတတ်၍ အဘိဓမ္မာဆရာနှစ်ဟုတွင်ခဲ့ခြင်း–စသည်ဖြင့် သာသနာ့ဘောင်နှင့်အလွန်နီးနီးစပ်စပ်နေထိုင်ခဲ့သော ပုဂ္ဂိုလ်ထူးတစ်ဦးဖြစ်သည်။ ထို့ပြင် လယ်တီ ဆရာတော်ဘုရားကြီး ရန်ကုန်မြို့သို့ကြွလာလျှင် ခွင့်ရက်ရှည်ယူကာတရားနာလာခြင်း၊ ဝတ်ကြီး ဝတ်ငယ်ပြုစုခြင်း–စသည့်အကြောင်းတို့ဖြင့် အစဉ်ချဉ်းကပ်ကာနေလေ့ရှိသည်။ ယခုအခါမှာမူကား လောကီဝတ်ကြောင်ကို လွတ်လွတ်စွန့်ပယ်၍ သာသနာ့ဘောင်သို့ လုံးလုံးလျားလျားဝင်ရောက် ခဲ့ပြီးဖြစ်လေရာ၊ လယ်တီဆရာတော်ဘုရားကြီးအား နိဿယည်းဆရာထားလျက် နောက်တော် ပါးမှ ထက်ချပ်မခွာလိုက်ပါ၍ ဆည်းကပ်နိုင်ပြီဖြစ်သည်။

## မန္တလေးမြို့ မစိုးရိမ်သို့

လယ်တီဆရာတော်ဘုရားကြီးမှာ ရန်ကုန်မြို့၌သီတင်းသုံးနေတော်မူစဉ် စက္ခုတော်မှာ ကြည့်ရှု၍မကောင်း, ရှေ့ကအခိုးများပိတ်ဖုံးနေသယောင်ယောင်ဖြစ်နေသည့်အတွက် မန္တလေး မြို့နေ သမားတော်ဦးကျော်ရန်ထံ တပည့်များကအကြောင်းကြားရာ ဦးကျော်ရန်က ဆရာတော် ဘုရားကြီးကို မန္တလေးသို့ပင့်ဆောင်၍ စက္ခုတော်ကုသရန်အစီအစဉ်များပြုလုပ်ခဲ့ပါသည်။ သို့ဖြင့် ဆရာတော်ဘုရားကြီးသည် ၁၂၇၃–ခုနှစ်၊ နတ်တော်လ (အေဒီ ၁၉၁၁–ခုနှစ်၊ နိုဝင်ဘာလ)တွင် မန္တလေးမြို့သို့ မီးရထားဖြင့်ကြွတော်မူခဲ့ရပါသည်။ မန္တလေးမြို့သို့ရောက်ရှိတော်မူလျှင် ကျောင်း ဒါယကာဦးသက်ရှည်၏ မစိုးရိမ်ကျောင်းတိုက်ကြီးရှိ ပထမသာသနနယူပဒေသကျောင်းအမည် ရှိသော အလယ်တိုက်ကြီးပေါ်၌ ခေတ္တသီတင်းသုံးနေတော်မူပါသည်။

---

*၁ ပဲခူးတိုင်း သာယာဝတီခရိုင် မင်းလှမြို့နယ်၌တည်ရှိသည်။

*၂ နောင်အခါ စစ်ကိုင်းတောင်ရိုး၌ ရန်ကုန်ချောင်တည်ကာ ရန်ကုန်ချောင်ဆရာတော်ဦးဓမ္မစာရီဟု လယ်တီနိကာယ၌ ဂဏကျက်သရေဆောင်ဘွဲ့ရ ဆရာတော်ကြီးတစ်ပါးဖြစ်သည်။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ ၃၀၂–၃၁၂)။ အရှင်ကေလာသ၏ စစ်ကိုင်းသာသနာဝင်။ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ–၂၂၉၊ ၂၃၀)။

*၃ ဆရာနှစ် ဒုလ္လဘဝတ်လျှင် ကျိုက်ထိုမြို့ သေဘျှတောင်ရှိ ဝိသုဒ္ဓိမဂ်မြန်မာပြန်ကျမ်းပြုဦးနန္ဒမာလာထံတော်၌ သက်နိုး ဆည်းလေ့ရှိသည်။ ထိုအချိန်ကပင် လယ်တီဦးဝါယမ(ဆရာမြို့)၊ လယ်တီပဏ္ဍိတ–တို့နှင့်လည်းခင်မင်ရင်းနှီးပြီး လယ်တီ ဆရာတော်ဘုရားကြီးထံပါးသို့လည်းချဉ်းကပ်၍ ဝတ်ကြီးဝတ်ငယ်ပြုစုခဲ့ဖူးလေသည်။

မန္တလေးမြို့မစိုးရိမ်ကျောင်းတိုက်ကြီး



ဆရာတော်ဦးသောမ



ဆရာတော်ဦးသူရိယ



ဆရာတော်ဦးဉာဏ

မစိုးရိမ်ကျောင်းတိုက်ကြီးမှာလည်း ၁၂၇၁ (အေဒီ–၁၉၀၉) ခုနှစ်က ပထမသာသနနယူပဒေသ ခေါ် အလယ်တိုက်ကြီးဆောက်လုပ်ပြီးစီးသည့်အခါ ကျောင်းဒါယကာဦးသက်ရှည်တို့သားအဖက မိမိတို့အပေါ် ၌ကျေးဇူးရှိသော မြို့ပြင်ကြီး၏ဆရာတော်[*၁]၏အဆက် ဗင်္ဂလားဆရာတော်ကြီး ဦးရဝိန္ဒာဘိဓဇမဟာထေရ်ကို ကျောင်းတင်ရန်အစီအစဉ်ပြုခဲ့ကြရသည်။ ဗင်္ဂလားဆရာတော်ကြီးကလည်း မစိုးရိမ်တိုက်ကြီးကိုလက်မခံဘဲ တောင်ငူမြို့တွင်စာချနေသော တပည့်ဦးသောမာဘိသိရီ[*၂] ကို ရန်ကုန်မှကြွလာစဉ်မှာပင် အတူခေါ်ယူလာပြီး မစိုးရိမ်ကျောင်းထက်နေ၍ စာချစေပါသည်။ နောက်နှစ်လခန့်ကြာသော် မစိုးရိမ်တိုက်ကြီး၏အရှေ့ပေါက်အဝင် မြောက်ဘက်၌ ဦးသက်ရှည်၏သား ဦးကျော် ဆောက်လုပ်နေသော ပါဠိနယူပဒေသကျောင်းလည်းပြီးစီးပြန်ရာ၊ ဗင်္ဂလားဆရာတော်ကြီးသည် စစ်ကိုင်းတောင်ရိုး ဝတ်ချက်ကျေးရွာ မင်းကျောင်း၌စာချနေသည့် ပထမကျော်ဦးသူရိယ[*၃] ကိုပင့်၍ မစိုးရိမ်တိုက်မှာပင်စာချနေရန် စီစဉ်တော်မူပြန်ပါသည်။ ထိုအခါက ဦးသောမမှာ သက်တော်(၃၄)နှစ်၊ ဦးသူရိယမှာ သက်တော်(၃၂)နှစ်မျှသာရှိတော်မူကြသေးသည့်အတွက် မစိုးရိမ်ကျောင်းတိုက်ကြီးဟူသော တိုက်တာအရှိန်အဝါနှင့်သော် ထိုကိုယ်တော်လေးနှစ်ပါး၏သက်တော်ရွယ်တော်မှာ ငယ်ရွယ်သလိုရှိနေသည်။ သို့ဖြစ်၍ ကျောင်းဒါယကာကြီးဦးသက်ရှည်တို့သားအဖက ထိုစဉ်က မန္တလေးမြို့၌ စာချအရာမှာလည်းထင်ရှား, သက်တော်ရွယ်တော်ကလည်းကြီးရင့်, ဂုဏ်အထည်ဒြပ်အားဖြင့်လည်းပြည့်ဝသော ရွှေရေးဆောင်ဆရာတော်ကြီး၊ အနောက်ပြင်စိန်တလုံးဟုထင်ရှားသော တောင်သမန်ကျောင်းဆရာတော်ကြီးဦးစိန္တာကဲ့သို့

---

*၁ ဦးသက်ရှည်သည် မန္တလေးမြို့တောင်ဘက် (၁၀)မိုင်အကွာ မြစ်ငယ်တံတား၏အနောက်ဘက်ရှိ ဉယျာဉ်တော်ခေါ် မြို့ပြင်ကြီးရွာဇာတိဖြစ်သည်။ ထိုမြို့ပြင်ကြီးရွာဇာတိဖြစ်၍လည်း ငယ်စဉ်ကပင် မြို့ပြင်ကြီးဆရာတော်ကိုဆည်းကပ်ခဲ့သူများဖြစ်သည်။ လူထုဒေါ်အမာ၏ မန္တလေးသူမန္တလေးသားများ။ ၁၉၉၁–ခုနှစ်။ (စာမျက်နှာ–၂၅)။

*၂ နောင်အခါ စစ်ကိုင်းတောင်ရိုး မဟာသစ်ဝင်ချောင်ဆရာတော်ကြီးဦးသောမာဘိသိရီ–ဟူ၍ ထင်ရှားခဲ့ပါသည်။ ဤမထေရ်ကြီးကို သက္ကရာဇ်–၁၂၃၉ (အေဒီ–၁၈၇၇)ခုနှစ်၌ဖွားတော်မူပါသည်။ ၁၂၅၉ (အေဒီ–၁၈၉၇)တွင် ရဟန်းဝတ်ခဲ့သည်။ ငယ်စဉ် ရှင်သာမဏေဘဝမှာပင် စစ်ကိုင်းတောင်ရိုး သောတာပန်တောင် ရေဦးကျောင်းဆရာတော်ဦးသုမန၊ ဘုရားကြီးတိုက် ပေတောဆရာတော်ဦးဣန္ဒ၊ ဦးအာစာရ၊ ရန်ကုန်ဆရာတော်ဦးသုဇာတ၊ ကဗျာနန်ခေါ် ဦးနန္ဒိယတို့ထံ ပညာသင်ယူခဲ့သည်။ ရဟန်းဖြစ်ပြီး ၁၂၆၁ (အေဒီ–၁၈၉၉)တွင် စစ်ကိုင်းတောင်ရိုး ဝါးချက်ရွာ လှေသင်းမင်းကျောင်းဆရာတော်နှင့် ၁၂၆၃ (အေဒီ–၁၉၀၁)တွင် ရန်ကုန်ဗင်္ဂလားဆရာတော်တို့ထံ ပညာသင်ယူခဲ့သည်။ ပြီးလျှင် ရဟန်းဒကာများ၏ဆန္ဒအရ တောင်ငူမြို့ မြစည်းနံဘုရားအနီး ပိဋကတ္တယာရာမကျောင်း၌ သီတင်းသုံးကာ စာဝါများပို့ချနေခဲ့သည်။ အရှင်ကေလာသ၏ စစ်ကိုင်းသာသနာဝင်။ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ ၂၀၀–၂၀၄)။

*၃ နောင်အခါ အဘိဓဇမဟာရဋ္ဌဂုရု ဆဋ္ဌသံဂါယနာဓိပတိ မစိုးရိမ်ဆရာတော်ဘုရားကြီးဘဒ္ဒန္တ သူရိယာဘိဝံသဟု ထင်ရှားတော်မူပါသည်။ ဤဆရာတော်ကြီးကို သက္ကရာဇ် –၁၂၄၁ (အေဒီ–၁၈၇၉)ခုနှစ်တွင်ဖွားတော်မူ၍၊ ၁၂၅၅ (အေဒီ–၁၈၉၃) တွင် ရှင်သာမဏေပြုပါသည်။ မိုးကောင်းကျောင်းတိုက်၌ပညာသင်ရာ အသက် ၁၆–နှစ်အရွယ်၌ အငယ်တန်းကို တစ်နံပါတ်မှအောင်မြင်၍၊ အသက် ၁၇–နှစ်အရွယ်တွင် ပထမလတ်ကိုကျော်၍ ပထမကြီးတန်းကိုလည်း တစ်နံပါတ်မှအောင်မြင်ခဲ့ပါသည်။ ၁၂၆၁ (အေဒီ–၁၈၉၉)တွင် ရဟန်းဘောင်ရောက်၍၊ ၁၂၆၂ (အေဒီ–၁၉၀၀)တွင် ပထမကျော်၊ ၁၂၆၅ (အေဒီ–၁၉၀၃)တွင် သကျသီဟစာသင်တန်း၊ ၁၂၇၀ (အေဒီ–၁၉၀၈)တွင် သကျသီဟစာချတန်း–တို့ကို အောင်မြင်တော်မူခဲ့ပါသည်။ အရှင်ရာဇဓမ္မာဘိဝံသ၏ ဘဒ္ဒန္တ သူရိယာဘိဝံသ၏ထေရုပ္ပတ္တိကထာ။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ–ဏ၊ တ)။

ဆရာတော်ကြီးမျိုးကို ကျောင်းတင်လိုကြသောဆန္ဒရှိခဲ့ကြလေသည်။ သို့ပါသော် ဗင်္လားဆရာတော်ကြီးက– 'ဖြစ်ပါတယ် မောင်သက်ရှည်ရ၊ မောင်သောမကလည်း တောင်ငူမှာစာချနေတဲ့ဘုန်းကြီး၊ မောင်သူရိယကလည်း စာမေးပွဲ အားလုံးအောင်ပြီး စစ်ကိုင်းမှာစာချနေတဲ့ဘုန်းကြီး၊ သူတို့ကိုလွှဲထားခဲ့ရင်ဖြစ်ရောပေါ့'–ဟု မိန့်တော်မူထားသဖြင့် ကျောင်းဒါယကာမှာ စိတ်တိုင်းမကျဖြစ်နေခဲ့ရသည်။*၁

ထိုဦးသောမ၊ ဦးသူရိယကိုယ်တော်လေးနှစ်ပါးတို့သည် မစိုးရိမ်တိုက်၌ ကျောင်းထိုင်ကြပြီး နောက်တစ်နှစ် ၁၂၇၂–ခုနှစ်တွင် ဤမစိုးရိမ်ကျောင်းတိုက်မှ သက်တော်(၂၇)နှစ်အရွယ် အရှင်ဉာဏ*၂ သည် တစ်ပြည်လုံး၌ ပထမကျော်အောင်ပန်းကိုဆွတ်ခူးလိုက်ရာ ကျောင်းဒကာကြီးမှာ သူ့တိုက်အပေါ် သူဂုဏ်ယူမဆုံးဖြစ်ရဘိသို့၊ သူ့ကျောင်းဘုန်းကြီးလေးနှစ်ပါးကိုလည်း မလေးစားမကြည်ညိုဘဲ မနေနိုင်အောင်ဖြစ်ခဲ့ရသည်။ ဤသို့သောအချိန်တွင် ရန်ကုန်မြို့၌ ဗင်္လားဆရာတော်ကြီးဦးရဝိန္ဒက လယ်တီဆရာတော်ဘုရားကြီး မန္တလေးသို့ပြန်ကြွမည်ရှိသောအခါ 'မန္တလေးသို့ရောက်လျှင် မစိုးရိမ်တိုက်၌သီတင်းသုံးပါ၊ ကိုယ်တော်လေးများကိုလည်းစောင့်ရှောက်ပါ'ဟု အမှာတော်ရှိသဖြင့် လယ်တီဆရာတော်ဘုရားကြီးသည် မန္တလေးမြို့သို့ရောက်သောအခါ မစိုးရိမ်တိုက်၌ ခေတ္တသီတင်းသုံးနေတော်မူခဲ့ခြင်းဖြစ်ပါသည်။

လယ်တီဆရာတော်ဘုရားကြီးသည် မစိုးရိမ်ကျောင်းတိုက်ကြီးကိုစီမံအုပ်ချုပ်နေကြသော ထိုဦးသောမ၊ ဦးသူရိယနှင့် ဦးဉာဏဟူသော ဆရာတော်လေးသုံးပါး၏အခြေအနေကို အကဲခတ်ကြည့်တော်မူရာ လွန်စွာအားရစိတ်တိုင်းကျတော်မူလျက် နောင်အခါ မိမိ၏သာသနာပြုလုပ်ငန်းများတွင်လည်း ပါဝင်ဆောင်ရွက်နိုင်ကြမည့် ရှင်ကောင်းရှင်မြတ် ရှင်ချွန်ရှင်မွန်များဖြစ်ကြောင်း ကောင်းစွာသိရှိတော်မူခဲ့ပါသည်။ ထိုအရှင်သုံးပါးတို့ကလည်း လယ်တီဆရာတော်ဘုရားကြီးအား မိမိတို့၏ငယ်ဆရာဥပဇ္ဈာယ်သဖွယ်သဘောထား၍ အကောင်းဆုံးအမွန်ဆုံးဟုဆိုအပ်သော အလယ်တိုက်ကျောင်းကြီးပေါ်၌သီတင်းသုံးစေကာ လိုလေသေးမရှိ အစစအရာရာပြည့်စုံအောင် ပြုစုတော်မူကြကုန်၏။

---

*၁ အရှင်ရာဇဓမ္မာဘိဝံသ၏ ဘဒ္ဒန္တ သူရိယာဘိဝံသ၏ထေရုပ္ပတ္တိကထာ။ သာသနာရေးဦးစီးဌာန၊ ရန်ကုန်မြို့။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ–၃၀၊ ၃၄)။

*၂ နောင်အခါ အဂ္ဂမဟာပဏ္ဍိတ မစိုးရိမ်ဆရာတော် ရွှေဂုံတိုင်ဆရာတော်ဦးဉာဏ–စသည်ဖြင့် ထင်ရှားတော်မူပါသည်။ ဤဆရာတော်ကြီးကို သက္ကရာဇ်–၁၂၄၅(အေဒီ–၁၈၈၃)ခုနှစ်တွင်ဖွားတော်မူပါသည်။ အသက်(၁၇)နှစ်အရွယ်တွင် စကော်လာရှစ်ဆုကိုရ၍ အစိုးရဟိုက်စကူးကျောင်း၌ (၉)တန်းကျောင်းသားဖြစ်ခဲ့သည်။ ၁၂၆၅(အေဒီ–၁၉၀၃)ခုနှစ်တွင် ကျိုက်ထီးရိုးဘုရားသွားရာမှအပြန်တွင် သတိသံဝေဂရ၍ အပေါင်–ကျွဲခြံရှိ ညောင်ပင်ကုန်းကျောင်း၌ ရှင်သာမဏေပြုခဲ့သည်။ ၁၂၆၆(အေဒီ–၁၉၀၄)ခုနှစ်တွင် ရန်ကုန်မြို့ ရွှေဂုံတိုင်ဆရာတော်ကြီးကိုဥပဇ္ဈာယ်ပြု၍ ရဟန်းဝတ်ခဲ့သည်။ ၁၂၆၈(အေဒီ–၁၉၀၆)ခုနှစ်တွင် ပခုက္ကူမြို့ ရေစကြိုဆရာတော်ဦးဂန္ဓ၊ ၁၂၆၉–၇၀–၇၁ (အေဒီ–၁၉၀၇/၁၉၀၈/၁၉၀၉)တို့တွင် စစ်ကိုင်းတောင်ရိုး ဝါးချက်ကျေးရွာ မင်းကျောင်းဆရာတော်ကြီးထံ ဦးသူရိယနှင့်အတူ ပညာသင်ယူခဲ့သည်။ ၁၂၇၂(အေဒီ–၁၉၁၀) သိက္ခာရှစ်ဝါအရတွင် ပထမကျော်တန်းကိုအောင်မြင်ခဲ့ပါသည်။ အရှင်ပညာဝံသ၏ ဆရာတော်ဦးဉာဏ၏ထေရုပ္ပတ္တိကထာ။ ဂုဏဝတီပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၃၈–ခုနှစ်။ (စာမျက်နှာ ၁၀–၅၉)။

**မန္တလေးမြို့တရားပွဲများ**

လယ်တီဆရာတော်ဘုရားကြီး မစိုးရိမ်တိုက်၌သီတင်းသုံးတော်မူပြီး လေးပြင်လေးရပ်တို့၌ တရားပွဲကြီးများကျင်းပခဲ့ပုံတို့ကို လယ်တီဦးဝဏ္ဏိတက အောက်ပါအတိုင်းမှတ်တမ်းတင်ရေးသား ထားပါသည်။

ပထမ မစိုးရိမ်ကျောင်းတိုက်ကစ၍ တရားပွဲကြီးကျင်းပတော်မူ၏။ ၎င်းမှ လေးပြင်လေးရပ်အနှံ့အပြား တရားပွဲကြီးများ အံ့သြဘနန်းတခမ်းတနား ကျယ်ပြန့်စွာ ပြုလုပ်ကြသည်။ သီတင်းသုံးရာဌာနမှ တရားပွဲကြီးများသို့ သူ့အရပ်ကိုယ့်အရပ် အားကျမခံ ဥပါသကာဝတ်အသင်း၊ ဆွမ်းတော်ကြီးဝတ်အသင်းများက မီးပြု၊ မီးနီ၊ မီးဝါ၊ မီးစိမ်း၊ မီးရှူးမီးပန်းတို့ဖြင့် အဆန်းတကြယ် ကြည်နူးဖွယ်ရာပင့်ဆောင်ကြ သည်။ ပရိသတ်များမှာလည်း လူရှင်ရဟန်းတို့ ပြည့်နှက်များပြား လွန်စွာစည်ကားလှ လေသည်။

ဟောပြောတော်မူသောတရားအချက်ကြီးများမှာလည်း– ခန္ဓာ၊ အာယတန၊ ဓာတ်၊ ပဋိစ္စသမုပ္ပါဒ်၊ သစ္စာလေးပါးအဘိဓမ္မာတရားရင်းကြီးတို့ကို မြန်မာစကားဖြင့် ပေါ်လွင်ထင်ရှား မြင်လုံးထွားအောင် ပြတ်သားစွာဟောတော်မူသည်။ ထို့ပြင် မိဘ ဉာတကာ ဆွေမျိုးများနှင့်မခြား နွားသား၊ ကျွဲသားတို့ကိုလည်း လအပိုင်းအခြား၊ နှစ်အပိုင်းအခြားဖြင့် အလှူခံတော်မူသည်။ ပရမတ္ထသံခိပ်အသင်း၊ ပဋိစ္စသမုပ္ပါဒ် အသင်း၊ ဓာတ်ကမ္မဋ္ဌာန်းအသင်း၊ မဟာစက်ပရိတ်အသင်းတို့ကိုလည်း တည်ထောင် တော်မူသည်။ မရှင်းလင်းသောအမေးပုစ္ဆာတို့ကိုလည်း ပြတ်သားစွာရှင်းလင်းဖြေကြား တော်မူသည်။*၁

**ဆွမ်းတရားတော်**

လယ်တီဆရာတော်ဘုရားကြီးသည် သကျသီဟဘုရားအတွင်း တရားပွဲကြီးကျင်းပတော် မူရာ တရားပွဲမစမီမှာပင် တရားနာရန်ကြွလာတော်မူကြကုန်သော ရဟန်းသံဃာတော်များဘက်က ရေးသားပေးပို့သော စာလွှာကြီးတစ်စောင်သည် လယ်တီဆရာတော်ဘုရားကြီးထံတော်သို့ရောက်ရှိ လာပါသည်။ ထိုစာလွှာ၌ရေးသားထားသည်မှာ–

'အရှင်ဘုရား၊ ဘုရားတပည့်တော်တို့ ပရိယတ်တရားတို့ကိုကြိုးစားကြသော ရှင်ရဟန်းတို့အဖို့မှာ အရေးကြီးသောဆွမ်းကိစ္စမျှတမှသာလျှင် တွင်ကျယ်စွာသင်ကြား ချပို့နိုင်ကြမည်ဖြစ်ပါသောကြောင့် မန္တလေးမြို့သူမြို့သားတို့အား ဆွမ်းတရားကြီး တစ်ပုဒ်ကို ဟောကြားညွှန်ပြပေးတော်မူပါရန်'– ရေးသားပါရှိလေသည်။

ဤစာလွှာကိုအကြောင်းပြု၍ လယ်တီဆရာတော်ဘုရားကြီးသည် ထိုညတရားပွဲတွင် သံဃာတော်များအတွက်ဆွမ်းတရားကို အောက်ပါအတိုင်းဟောပြောတော်မူခဲ့ပါသည်။

*၁ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၅၈)။

သာသနေ သောဏ္ဏသေလမှိ၊ ဟေမဟံသာဝ မောဒရေ။
ဘိက္ခဝေါ သီလသမ္ပန္နာ၊ ဒါယကာ စ မဟပ္ဖလာ။

အနက်ကား– သောဏ္ဏသေလမှိ–ရွှေတောင်ကြီးနှင့်တူသော၊ သာသနေ–သာသနာတော်မြတ်၌၊ သီလသမ္ပန္နာ–သီလနှင့်ပြည့်စုံတော်မူကြကုန်သော၊ ဘိက္ခဝေါ–ရဟန်းတော်အများဘုရားသားတော်တို့သည်၊ ဟေမဟံသာဝ–ရွှေဟင်္သာတို့ကဲ့သို့ မောဒရေ–မောဒန္တိ–ရွှင်လန်းမွေ့လျော်တော်မူကြကုန်၏။ ဒါယကာ စ–ထိုသာသနာတော်တည်းဟူသောရွှေတောင်၌ ရွှေရောင်အဆင်း ရွှေဟင်္သာနှင့်တူသော ရဟန်းတော်အရှင်မြတ်တို့အား ဆက်ကပ်ကြည်ဖြူ လှူဒါန်းသူအပေါင်း သူတော်ကောင်းတို့သည်၊ မဟပ္ဖလာ–ကြီးမားသောအကျိုးရှိကြလေကုန်၏။

မြတ်စွာဘုရား၏သာသနာတော်မြတ်သည်သာလျှင် လျှပ်ဝင်းဝါသော ရတနာရွှေတောင်ကြီးနှင့်တူပေ၏။ ထိုသာသနာတော်အတွင်း၌ မှီတင်းနေထိုင်တော်မူကြသော သာသနာတော်ထမ်း ရဟန်းတော်အရှင်မြတ်တို့သည်ကား ရွှေဟင်္သာတို့နှင့်တူပေကုန်၏။ သာသနာတော်အတွင်း၌ မှီတင်းနေတော်မူကြသော သံဃာတော်တို့အား လှူဒါန်းပူဇော်ကြကုန်သော ဒါယကာအများတို့သည် ကြီးမားသောအကျိုးကိုရနိုင်ကြကုန်၏။

မြတ်စွာဘုရားတို့၏သာသနာဆိုသည်ကား၊ ကမ္ဘာ့ကမ္ဘာ ကြာကြီးကြာသော်လည်း လွန်စွာရနိုင်ခဲလှသောအရာကြီးတစ်ခုဖြစ်ပေသည်။ ထိုသာသနာတော်တွင်း၌ မြတ်စွာဘုရား၏အာဏာတော် ဒေသနာရှိသောအတိုင်း မဆိုင်းမတွ ဝိနည်းတော်ဓမ္မနှင့်အညီကျင့်ဆောင်ရသော ရဟန်းတော်ဘဝတို့မှာလည်း သာ၍ပင်ရနိုင်ခဲလေသည်။ ရဟန်းအဖြစ်ကိုပင်မရနိုင်စေကာမူ သာသနာတော်နှင့်ကြုံကြိုက်၍ အခိုက်သင့်စွာလူဖြစ်သောအခါတွင် သာသနာကိုတတ်နိုင်သမျှထောက်ပံ့၍ ရဟန်းတော်တို့အား လှူဒါန်းမှုကိုပြုရခြင်းသည်လည်း အလွန်ပင်ရခဲခြင်းကြီးဖြစ်ပြန်သည်။ ထိုသို့ရခဲလှစွာသော ခေတ်ကောင်းကြီးများနှင့် ယခုအခါ မြန်မာနိုင်ငံတော်ကြီးသည် အပြီးတွေ့ကြုံလျက် အခွင့်ကောင်းနေသည်ဖြစ်၏။

ဤမြန်မာနိုင်ငံတော်၌သာလျှင် ဗုဒ္ဓဘာသာသာသနာတော်ထမ်း ရဟန်းသူမြတ်တို့သည် ပေါများ၍ ဒါယကာဖြစ်သော လူတို့၏သဒ္ဓါတရားသည်လည်း များစွာထက်သန်ကြကုန်သည်။ မြန်မာနိုင်ငံတော်တွင်လည်း ဤမန္တလေးမြို့တော်ကြီးသည် အထူးသဖြင့် သာသနာတော်ထွန်းကားပွင့်လင်းရာအရပ်ကြီးဖြစ်ပေ၏။ သာသနာထမ်းရဟန်းတော်တို့သည်လည်း အခြားမြို့တကာတို့ထက်ပင် ပေါများစွာနေထိုင်တော်မူကြကုန်၏။ ပဋ္ဌမသင်္ဂါယနာတင်မင်းတရားကြီးလက်ထက်အခါတွင် လေးပြင်လေးရပ်၌သီတင်းသုံးနေထိုင်တော်မူကြသော ရဟန်းတော်များသည် သုံးသောင်းကျော် လေး

သောင်းခန့်မျှရှိတော်မူကြကုန်၏။ ယခုအခါ၌လည်း တစ်သောင်းနီးနီးပင်ရှိတော်မူကြကုန်လိမ့်မည်။

ရဟန်းတော်တို့မည်သည် လှူဒါယကာတို့၏အထောက်အပံ့ကို ခံယူနေတော်မူကြရသောကြောင့် မန္တလေးမြို့၌ရှိနေကြကုန်သော ဒါယကာအပေါင်း သူတော်ကောင်းတို့၏ အထောက်အပံ့ကောင်းသောကြောင့်သာလျှင် ဤမျှလောက်များပြောင်သော သံဃာတော်တို့ နေနိုင်တော်မူကြကုန်သည်။ ဆွမ်းဒါယကာ, ဆွမ်းဒါယိကာမများ ဆွမ်းလောင်းကြပေသည့်အတွက်နှင့် သံဃာတော်များနေနိုင်တော်မူကြသည်–ဟု ဆိုလိုသည်။ ပိဏ္ဍပါတ်ကိစ္စနှင့် အမြဲမပြတ်ဆွမ်းလောင်းလှူခြင်းတည်းဟူသော သဒ္ဓါတရားအရာဝယ် မန္တလေးနေပြည်တော်ကြီးသည် အသာလွန်ဆုံးဟူ၍ ချီးမွမ်းထိုက်လှပေ၏။

ယခုအခါ မြန်မာနိုင်ငံတော်၌ရှိနေတော်မူကြကုန်သော ရဟန်းတော် သံဃာတော်တို့သည် မန္တလေးမြို့သူမြို့သားတို့၏ဆွမ်းကို မဘုဉ်းပေးမသုံးဆောင်ဖူးသော ရဟန်းကား အနည်းငယ်မျှသာရှိတော်မူကြလိမ့်မည်။ မန္တလေးမြို့သူမြို့သားတို့၏ လောင်းလှူသောဆွမ်းကို သုံးဆောင်တော်မူကြကုန်၍ ပရိယတ်အရာ၌ လိမ်မာတတ်မြောက်တော်မူကြသော ရဟန်းတော်တို့သာ များကြပေကုန်လိမ့်မည်။

ရဟန်းတော်တို့သည်လည်း ပဉ္စင်းခံပြီးသောအခါ စာပေပရိယတ် သင်ကြားမှုကိစ္စဖြင့် မန္တလေးမြို့တော်သို့သာ သွားရောက်၍သင်ကြားတော်မူကြရကုန်၏။ မြန်မာနိုင်ငံတော်၌လည်း ထွန်းပွင့်လင်း၍နေသော ပရိယတ်သာသနာတော်သည် မန္တလေးမြို့ကြီးက ထူထောင်စိုက်ပျိုး၍လာသည်ဟူ၍ဆိုလျှင် လွဲမည်မဟုတ်ချေ။ ယခုအခါ မြန်မာနိုင်ငံတော်အတွင်းဝယ် ဂုဏ်သတင်းကျော်စောတော်မူကြပေကုန်သော ကျမ်းဂန်တတ်အကျော် ဆရာတော်သံဃာတော်များသည် များသောအားဖြင့် မန္တလေးမြို့တော်မှာနေထိုင်၍ စာပေပရိယတ်ကို သင်ကြားတော်မူကြဖူးသော ပုဂ္ဂိုလ်မြတ်တို့သာ ဖြစ်ကြကုန်လိမ့်မည်။

ထို့ကြောင့် ဤမန္တလေးမြို့တော်ကြီးသည် ဗုဒ္ဓမြတ်စွာ၏သာသနာ့အကျိုးဆောင်မြို့ကြီးပင်ဖြစ်၍နေ၏။ ဥပမာအားဖြင့် ဓတရဋ္ဌမည်သော ရွှေဟင်္သာမျိုးအပေါင်းကိုးသောင်းတို့၏ကျက်စားရာ မင်္ဂလာကြာရေကန်ကြီးကဲ့သို့ ရွှေအဆင်းနှင့်တူသော သင်္ကန်းရောင်တို့ဖြင့် တပြောင်ပြောင်တောက်ပတော်မူကြကုန်သော သာကီနွယ်ဖွား ရဟန်းတော်များတို့၏ကျက်စားရာ မင်္ဂလာဘူမိ ရပ်သီရိသည်ကား မန္တလေးမြို့တော်ကြီးတည်း။ ရွှေဟင်္သာတို့ပျော်ပါးကျက်စားရာဖြစ်သော မင်္ဂလာကျက်သရေရှိသော ကြာရေကန်ကြီးသည် ရွှေစင်အတိပြီးသော ဟင်္သာရောင်တို့ဖြင့် တပြောင်ပြောင်တောက်ပသကဲ့သို့ မန္တလေးမြို့တော်ကြီးသည် ရွှေအဆင်းရှိသော ရဟန်းတော်တို့၏သင်္ကန်းရောင်တို့ဖြင့် တပြောင်ပြောင်တောက်ပရာဌာနကြီးဖြစ်ပေ၏။

ထိုသို့ သာသနာတော်ကို ပြုစုပျိုးထောင်ရာဌာနဒေသ၊ ပဋိရူပမြို့ကြီးမှာ သဒ္ဓါပြည့်စုံစွာ လူဖြစ်၍နေကြသောသူများသည် အလွန်တရားကံကောင်းကြသည်ဟူ၍ ဆိုထိုက်ပေသည်။ အဘယ့်ကြောင့်ဆိုသော် ထိုသူတို့၏မျက်စိများသည် ဝါဝါဝင်းဝင်း သင်္ကန်းရောင်ချင်းတွေးယှက်ထိန်တောက်၍နေသောအရာမှာ ကျက်စားရသောကြောင့် ဒဿနာနုတ္တရိယကို လုလုကြီးရနိုင်ကြသည်။ ဒဿနာနုတ္တရိယဆိုသည်ကား အမြင်တော်သည်, အမြင်ကောင်းကြုံကြိုက်သည်ဟူ၍ ဆိုလိုသည်။

ဆဒ္ဒန်ဆင်မင်းဇာတ်၌ သင်္ကန်းရောင်ဖြင့်ဝတ်ဆင်ထားသော သောနုတ္တရမုဆိုးကို အလောင်းတော်ဆင်မင်းတွေ့မြင်ရာ ငါ့ကို အမြင်တော်လျော်စွာနှင့် ဒဿနာနုတ္တရိယဖြစ်အောင် ချီးမြှောက်လာပါပေသည်ဟု သဘောရပြီးလျှင် မိမိက နှိပ်စက်နိုင်လျက်နှင့် မနှိပ်စက်ဘဲ အရိုအသေပင်ပြုတော်မူရလေသည်များကိုထောက်ထား၍ အရဟတ္တဓဇဖြစ်သော သင်္ကန်းရောင်များကိုတွေ့မြင်ရာ၌ လွန်စွာအမြင်တော်ကြောင်းကို သိရာ၏။

ထို့ပြင် စာသံပေသံ,ဘုရားသံတရားသံ တသောသောနှင့်နေသော မြို့ကြီးတွင်ဖြစ်ကြရသောကြောင့် ထိုသူတို့၏ သောတစာတ်တည်းဟူသော နားများသည် သဝနာနုတ္တရိယကို ကောင်းကောင်းကြီးရကြပေသည်။ သဝနာနုတ္တရိယဆိုသည်ကား– အကြားတော်သည်, အကြားကောင်းသည်နှင့်ကြုံကြိုက်သည်ဟူ၍ ဆိုလိုသည်။

ထိုမှတပါး ရတနာသုံးပါးတို့၌ မပြတ်ကိုင်းညွှတ်သောစိတ်ရှိကြကုန်သောကြောင့် နံနက်အရုဏ်မတက်မီကပင် ငါတို့မှာ ဆွမ်းလောင်းရန်ဝတ်ရှိကြပေသည်ဟူ၍ အမြဲနိစ္စပတ်စိတ်စွဲ၍ သံဃာတော်များကိုလောင်းလှူရန် ဆွမ်းများကိုချက်ပြုတ်ကြကုန်၏။ မိမိတို့အလုပ်ခွင်သို့မဝင်မီ ရှေးဦးစွာ သာသနာနှင့်စပ်သောအလုပ်ခွင်သို့ ဝင်ကြပေသည်။ ထိုနောက် ဆွမ်းဘောဇဉ်များကိုပြင်ဆင်ပြီးလျှင် ရိုသေစွာလောင်းလှူကြပေကုန်သည်။ ထိုဆွမ်းပန်းကိစ္စများပြီးစီးမှ မိမိတို့၏လောကီအလုပ်ခွင်သို့ ဝင်ကြကုန်သည်။ ဤသို့ နေ့စဉ်ရက်ဆက်အားဖြင့် ကောင်းမှုကုသိုလ်ရေးတို့ကို ဆောင်ရွက်ကြရခြင်းသည်ကား များစွာထူးမြတ်လေသည်။

သံသရာ၌ မိမိတို့၏ခြေလက်အင်္ဂါများကို သာသနာနှင့်စပ်သော အမှုကိစ္စများတွင် အသုံးချခဲ့ဖူးသောဘဝကား အလွန်တရာနည်းပါးလှကုန်၏။ သားမယားကိစ္စ, ခင်ပွန်းယောက်ျားကိစ္စနှင့်သာ တွင်ကျယ်စွာလုပ်ကိုင်၍လာခဲ့ကြရသည်။ သံသရာထဲ၌ မိမိ၏ခန္ဓာတွေကို တွက်ခြေမရှိသောအလုပ်နှင့်သာ ဖြုန်းတီး၍ပစ်ခဲ့ကြသည်ဟု ဆိုလိုသည်။ ယခု လူ့ဘဝတွင်ကြုံကြိုက်၍ရရှိနေကြသောခန္ဓာများကို ရှေးရှေးဘဝတို့၌ ကုသိုလ်ကောင်းမှုတို့ဖြင့်နိုးရင်း၍ လာခဲ့ကြသောကြောင့်သာလျှင် ရရှိကြကုန်သည်။ အလကားရရှိနိုင်သည်မဟုတ်။

ဤလောက၌ အရင်းအနှီးကြီးကျယ်စွာပေး၍ ဝယ်ယူအပ်ကုန်သော စိန်, ကျောက်,ပတ္တမြားစသော ရတနာအထည်အကွင်းများကို အသုံးမကျသောနေရာ၌ အသုံးချ၍ပစ်လျှင် မတော်မလျော်သကဲ့သို့ ထို့အတူ ရှေးရှေးဘဝတို့၌ အပင်အပန်း ခံ၍ ကုသိုလ်ကံဖြင့် နီးရင်းဆည်းပူးမှုရရှိသော ခန္ဓာများကို အကျိုးမများသော ကိစ္စဖြင့် ဖြုန်းတီးပစ်ရန် အလွန်မလျောက်ပတ်မလျော်ကံသည်သာဖြစ်၏။ အဖိုး များစွာဖြင့်ဝယ်ယူရရှိသော ရတနာများဖြင့် တစ်ဖန်နီးရင်း၍ ထို့ထက်မွန်မြတ်သော ရတနာအတိုးအပွားများကိုသာ ရအောင်ကြိုးစားအားထုတ်သော ကုန်သည်ကြီးများ ကဲ့သို့ ကုသိုလ်ဖြင့်ရင်းနှီး၍ရအပ်သော လူ့ဘဝခန္ဓာဖြင့် ရင်းနှီးပြီးလျှင် ထို့ထက် မွန်မြတ်သောဘဝကိုရရှိအောင်သာလျှင် ကြိုးစားကြဆောင်အားသစ်ကြရာ၏။

ယခုရရှိ၍နေသောလူ့ဘဝသည်ကား အလွန်တရာရနိုင်ခဲသော ဒုလ္လဘတရား ဖြစ်သည်ဟူ၍ မြတ်စွာဘုရားဟောကြားတော်မူသည့်အတိုင်း ရခဲသောဘဝ၌ ထိုင် ပြီးလျှင် ယခုထက်သာလွန်မြင့်မြတ်စေမည်၊ တစ်ဖန်နိမ့်ကျသောဘုံဘဝကိုမူကား မလျောမကျစေပြီ–ဟူ၍ စိတ်ကိုတက်ကြွစေပြီးလျှင် ဤဘဝခန္ဓာဖြင့် လိုရာအခြေ အနေသို့ရောက်အောင် ကြိုးစားရာ၏။

အမြို့မြို့သို့ကုန်စည်ကူးသန်းနိုင်သော ဆိပ်ကမ်းကောင်းသည့် မြို့၌တည်နေ၍ ကူးကြီးသန်းကြီး လုပ်ငန်းဆောင်တာကြီးနှင့်နေသော ကုန်သည်ကြီးကဲ့သို့ ထို့အတူ ယခုအခါ ကြံ၍နေသောလူ့ဘဝသည် အလိုရှိရာသို့လှမ်းနိုင်သော ဆိပ်ကမ်းကောင်း သည့်မြို့ကြီးကဲ့သို့ဖြစ်နေ၏။ နတ်ပြည်လောကမှာဖြစ်သော်လည်း ယခုရရှိသော လူ့ဘဝကဲ့သို့ ကိုယ်ဖြင့်ရင်းနှီး၍ ကြံကြီးစည်ကြီးနှင့် ကုသိုလ်ကောင်းမှုကိုပြုရန် အခွင့်မရှိချေ။ ဝိနည်းဒေသနာတော်အရ လူတို့ကိုသာလျှင် ရဟန်းအဖြစ်ကို ပညတ် ခွင့်ပြုတော်မူသောကြောင့် နတ်ပြည်မှာဆွမ်းလောင်းချင်သော်လည်း ရဟန်းကိုယ် တော်များ မရှိချေ။ နတ်သားများသည် သဒ္ဓါတရားကောင်း၍ ဘယ်လိုပင်ရဟန်း ပြုချင်သော်လည်း အသက်ပင်သေသာသေမည်၊ ရဟန်းပြုခွင့်မရကုန်။ သံဃာ တော်တို့၏ဝေယျာဝစ္စကိုဆောင်ရွက်ချင်ပါသော်လည်း နတ်ပြည်မှာ ကျောင်းကန် တိုက်တာမရှိသောကြောင့် မပြုမလုပ်နိုင်ကြကုန်။ ဤသို့စသောအရာများကို ထောက် စာ၍ကြည့်လိုက်လျှင် ယခု ငါတို့ရရှိသောဘဝသည် လွန်စွာနေရာကျ၍ အဖိုးတန် လှပါတကားဟု များစွာအားတက်စရာကောင်းပေသည်။ [*၁]

လယ်တီဆရာတော်ဘုရားကြီးသည် ပြဆိုခဲ့ပြီးသောသဘောအဓိပ္ပာယ်များကိုထင်ရှားစေ ရန် နတ်ပြည်လောကကိုအစိုးရသော သိကြားမင်းကြီးနှင့်မိဖုရားကြီးသုဇာဒေဝီတို့ နတ်ပြည်မှ ဆင်းသက်၍ လူ့ပြည်၌ အဘိုးကြီးအိုအဘွားကြီးအိုအယောင်ဆောင်ကာ အရှင်မဟာကဿပ ကိုယ်တော်ကြီးအား ဆွမ်းလောင်းကြရသောဝတ္ထုကို ထုတ်ဆောင်၍ဟောပြတော်မူပါသည်။

---

*၁ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ ၅၉–၆၄)။

သံဃာတော်များ ဒုတိယလျှောက်လွှာ

ဤသို့လျှင် လယ်တီဆရာတော်ဘုရားကြီးက မန္တလေးမြို့သူမြို့သားတရားနာပရိသတ်ကြီးအား သံဃာတော်များအတွက်လှူဒါန်းရသောဆွမ်းတရားကြီးကို အကျယ်ထုတ်ဆောင်၍ဟောကြားတော်မူရာ နောက်တစ်နေ့တွင် အခါတိုင်းထက်ပိုမို၍ဆွမ်းများရကြသဖြင့် သံဃာတော်များဆွမ်းကိစ္စအတွက် သက်သာချောင်ချိတော်မူကြလေသည်။ နောက်တစ်နေ့ည သံဃာတော်များထံမှ စာလွှာကြီးတစ်စောင်သည် တရားပွဲမစမီမှာပင် လယ်တီဆရာတော်ဘုရားကြီးထံတော်သို့ ဆိုက်ရောက်လာပြန်ပါသည်။

ထိုလျှောက်လွှာတွင်ပါရှိသည်မှာ–

'ဆရာတော်ဘုရားကြီးဟောကြားတော်မူသော ဆွမ်းတရားကြီးအတွက် ဆွမ်းကိစ္စတော့ဖြင့်ချောမောသွားပါပြီ၊ သို့သော် ဆွမ်းဟင်းများလိုနေပါသေးသည်၊ သို့ပါ၍ ဟင်းတရားကြီးတစ်ပုဒ်ဆက်လက်ဟောတော်မူပါရန်'–လျှောက်ထားကြပြန်၏။

သို့ဖြစ်ပါ၍ ဆရာတော်ဘုရားကြီးသည် ယခုညတရားပွဲတွင် ဆက်လက်၍ သံဃာတော်များအတွက် ဆွမ်းဟင်းတရားတော်ကြီးကို အောက်ပါအတိုင်းဟောတော်မူရပြန်ပါသည်။

အပရိဝါရဒါန, သပရိဝါရဒါန နှစ်ပါးတွင် သပရိဝါရဒါန မြတ်၏။ သင်္ကန်းကိုလှူလျှင် သင်္ကန်းသက်သက်လှူသည်ကား အပရိဝါရဒါနမည်၏။ သင်္ကန်းလှူလျှင် သင်္ကန်းနှင့်စပ်သော ခါးပန်းကြိုး, မျက်နှာသုတ်ပုဝါ, လက်သုတ်ပုဝါ, လွယ်အိတ်, လက်ကိုင်ပုဝါစသော အခြံအရံစုကို အစုံအလင်ပြု၍လှူသည်ကား သပရိဝါရဒါနမည်၏။ ဆွမ်းကိုလှူလျှင် ဆွမ်းသက်သက်လှူသည်ကား အပရိဝါရဒါနမည်၏။ ဆွမ်းလှူလျှင် ဆွမ်းနှင့်စပ်သော ဟင်း, ချိုချဉ်, လက်သုတ်ဟင်းလျာ, စားဖွယ်သောက်ဖွယ်, အုန်း, ငှက်ပျော, သစ်သီးဝလံစသောအခြံအရံစုကို အစုံအလင်ပြု၍လှူသည်ကား သပရိဝါရဒါနမည်၏။

အပရိဝါရဒါနသည် အကျိုးပေးသောအခါ အဝတ်ကိုအလိုရှိလျှင် အဝတ်သက်သက်ကိုသာရတတ်၏။ ထမင်းကိုအလိုရှိလျှင် ထမင်းကိုသာရတတ်၏။ 'ပျားရှိ၍ ဖက်မရှိ၊ ဖက်ရှိ၍ ပျားမရှိ'–ဆိုဘိသကဲ့သို့ဖြစ်တတ်၏။

သပရိဝါရဒါနများအကျိုးပေးသောအခါ အဝတ်ကိုအလိုရှိလျှင် အဝတ်၏အခြံအရံဖြစ်သော ခေါင်းပေါင်း, အင်္ကျီအစုံအလင်နှင့်တကွရတတ်၏။ ထမင်းကိုအလိုရှိလျှင် ထမင်း၏အခြံအရံဖြစ်သော ဟင်းကျွေးဟင်းလျာအစုံအလင်, ဘောဇဉ်, ခဲဖွယ်, ပန်းကန်, အုပ်ခွက်, လက်ဖက် ဆေးကွမ်းနှင့်တကွရတတ်၏။

ဆွမ်းချည်းသက်သက်လောင်းလှူရသော အပရိဝါရဒါနထက် ဆွမ်း၏အခြံအရံဖြစ်သော ဟင်းကျွေးဟင်းလျာများကိုလည်းလှူဒါန်းကြရန်– ဆွမ်းဟင်းတရားကြီးကို အကျယ်ဟောပြောတော်မူပါသည်။

သို့လျှင် လယ်တီဆရာတော်ဘုရားကြီး၏ဆွမ်းဟင်းတရားကို နာယူရကြပြန်သောအခါ မန္တလေးမြို့သူမြို့သားသူတော်စင်အပေါင်းတို့က သံဃာတော်အရှင်မြတ်များအား ဆွမ်းနှင့်ဟင်းလျာ ညီမျှစွာလောင်းလှူကြပါသဖြင့် သံဃာတော်များအဖို့မှာ ချမ်းသာစွာပရိယတ်လုပ်ငန်းကြီးကို အားထုတ်တော်မူကြရလေ၏။*၁

## လန်ဒန်မှ ယမိုက်ပုစ္ဆာ

သက္ကရာဇ် ၁၂၇၃–ခုနှစ်၊ နတ်တော်လအတွင်း လယ်တီဆရာတော်ဘုရားကြီးသည် မန္တလေးမြို့၌ စက္ခုတော်ကိုဆေးဝါးကုသမှုခံယူတော်မူရင်း မြို့လေးပြင်လေးရပ်တို့၌ တရားပွဲများကိုလည်း ဆင်ယင်ကျင်းပနေတော်မူစဉ် အင်္ဂလန်နိုင်ငံ လန်ဒန်မြို့ ပါဠိကျမ်းစာအသင်းကြီး (Pāli Text Society) မှ မစ္စစ်ရီးဒေးဗစ် (Mrs. C.A.F. Rhys Davids) *၂ အမည်ရှိသောဒါယိကာမကြီးထံမှ ယမိုက်ပါဠိတော်နှင့်စပ်လျဉ်းသော အမေးပုစ္ဆာစာလွှာသည် ဆရာတော်ဘုရားကြီးထံတော်သို့ ရောက်ရှိလာပါသည်။ ယင်းအမေးပုစ္ဆာမှာ အောက်ပါအတိုင်းဖြစ်သည်။

> သတ္တ အဘိဓမ္မ ပကရဏာနိ ဒေသေန္တော ဗုဒ္ဓေါ ဘဂဝါ ပဋ္ဌမသု ကထာဝတ္ထုပကရဏာသု အနန္တရေ ဆဋ္ဌမံ ယမကပကရဏံ ဒေသေတိ။ တတ္ထ ကိံ ကာရဏံ ကိဋ္ဌ ပယောဇနန္တိ ပုစ္ဆာပထမာ။
>
> ဆဋ္ဌမံ ယမကပကရဏံ ဒေသေန္တော ဗုဒ္ဓေါဘဂဝါ ပထမံ မူလယမကံ ဒေသေတိ၊ တဒနန္တရေ ခန္ဓယမကံ။ တဒနန္တရေ အာယတနယမကံ။ တဒနန္တရေ ဓာတုယမကံ။ တဒနန္တရေ သစ္စယမကံ။ တဒနန္တရေ သင်္ခါရယမကံ။ တဒနန္တရေ အနုသယယမကံ။ တဒနန္တရေ စိတ္တယမကံ။ တဒနန္တရေ ဓမ္မယမကံ။ တဒနန္တရေ ဣန္ဒြိယယမကံ ဒေသေတိ။ တတ္ထ ကိံကာရဏံ ကိဋ္ဌ ပယောဇနံ။ ကထဋ္ဌ ပုဗ္ဗာပရာနုသန္ဓိ ဝတ္တဗ္ဗာတိ ပုစ္ဆာ ဒုတိယာ။
>
> ဒသန္နံ ယမကပကရဏာနံ သရီရတ္တဘူတာ ဓမ္မာ ဒသဝိဓာ ဟောန္တိ။ ကတမေဒသ။ နဝမူလဓမ္မာ ပဥ္စခန္ဓဓမ္မာ ဒွါဒသအာယတနဓမ္မာ အဋ္ဌာရသ ဓာတုယော စတ္တာရိအရိယသစ္စာနိ တယောသင်္ခါရာ သတ္တအနုသယာ ကေ၀ံစိတ္တံ

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ ၆၄–၆၆)။

*၂ ဤဒါယိကာမကြီးမှာ 'လန်ဒန်မြို့ ပါဠိအသင်းမှ မစ္စစ်ရီးဒေးဗစ်'ဖြစ်၍ လယ်တီဆရာတော်ဘုရားကြီးက 'လန်ဒန်+ပါဠိ+ဒေဝီ'ဟု ခေါ်တွင်ခဲ့သည်။ လန်ဒန်ပါဠိဒေဝီကို သက္ကရာဇ်–၁၂၂၀ (အေဒီ–၁၈၅၈)ခုနှစ်တွင် အင်္ဂလန်နိုင်ငံ လန်ဒန်မြို့၌ ဖွားမြင်ပါသည်။ ငယ်မည်မှာ မစ် ကာရိုလိုင်း ဩဂတ်စတ ဖိုလေ (Miss Caroline Augusta Foley) ဖြစ်သည်။ ငယ်စဉ်ကပင် စာပေထူးချွန်ပြီး စိတ်ပညာရပ်၌အလွန်စိတ်ဝင်တစားလေ့လာခဲ့သည်။ ပါဠိစာပေကိုလည်း ငယ်စဉ်ကပင် သင်ယူခဲ့သည်။ သို့ဖြစ်၍ လန်ဒန်တက္ကသိုလ်မှ မဟာဝိဇ္ဇာ (M.A.)၊ စာပေပါရဂူ (D.Litt.) စသောဘွဲ့များရရှိခဲ့သည်။ လန်ဒန်ပါဠိကျမ်းစာအသင်းကိုတည်ထောင်သူ ဒေါက်တာရီးဒေးဗစ် (Dr. T.W. Rhys Davids, F.B.A., D.Sc., Ph.D., LL.D., D.Litt.) နှင့်အိမ်ထောင်ကျပြီးနောက် ဥရောပနိုင်ငံ၌ ပါဠိစာပေထွန်းကားရေးအတွက် အမြောက်အမြား စွမ်းဆောင်ခဲ့ပါသည်။

တယောကုသလတိက္ကမ္မေ ဗာဝီသတိက္ကန္ဒြိယာနီတိ။ ကသ္မာ တေဝေ ဒသမ္မော ယမကာဘာဝေန ဒေသိတာ။ အညေပိ ဗဟုဝိဓာ ဓမ္မာအတ္တိ၊ ဈာနဓမ္မာ မဂ္ဂဓမ္မာ ဒယော အာသဝါဒယော ဝေဒနာတ္တိကမ္မောဒယော စ။ ကသ္မာပန တေပိဓမ္မာ ယမကာဘာဝေန နဒေသိတာတိ ပုစ္ဆာတတိယာ။

တေသု စ ယမကပကရဏေသု ကေမေကဿပိ အတ္တဿ တတ္တတတ္ထ ဘိယျော ပုနပ္ပုနံ ဝစနံ ဒိဿတိ။ တထာ ဝစနံ ပန အတိပပဉ္စံဟောတိ။ ဂန္ထဂရုကံ ဂန္ထဘာရိယံ။ ပုနရုတ္တိဒေါသော စ အာပဇ္ဇတိ။ ကိံ တတ္ထ ကာရဏံ။ ကိဥ္စ ပယောဇနန္တိ၊ ပုစ္ဆာစတုတ္ထိ။

ဒသသု ယမကပကရဏေသု ကေမေကဿ ယမကပကရဏဿ ဝိသုံ ဝိသုံ သမုဒ္ဒါယတ္ထော ကတမောတိ ပုစ္ဆာပဉ္စမီ။ ။[*၁]

လန်ဒန်ပါဠိဒေဝီအမည်ရှိသော ဒါယိကာမကြီးလျှောက်ထားလာသော အထက်ဖော်ပြပါ ယမိုက်ပုစ္ဆာတို့၏မြန်မာပြန်မှာလည်း အောက်ပါအတိုင်းဖြစ်ပါသည်။

အဘိဓမ္မာခုနစ်ကျမ်းကိုဟောတော်မူရာမှာ ဓမ္မသင်္ဂဏီကျမ်း, ဝိဘင်းကျမ်း, ဓာတုကထာကျမ်း, ပုဂ္ဂလပညတ်ကျမ်း, ကထာဝတ္ထုကျမ်း, ယမိုက်ကျမ်း, ပဋ္ဌာန်းကျမ်း–ဟူ၍ ခုနစ်ကျမ်းရှိသည်တွင် ယမိုက်ကျမ်းသည် ခြောက်ဆင့်မြောက်ဖြစ်၏။ ကထာဝတ္ထုကျမ်း၏နောက် အခြားမဲ့၌ကျ၏။ အဘယ့်ကြောင့် ယမိုက်ကျမ်းကို ခြောက်ဆင့်မြောက်သောနေရာ၌ ဟောတော်မူပါသနည်း။ အဘယ်အကျိုးကိုရှုမြော်၍ ဟောတော်မူပါသနည်း။

ထို ခြောက်ဆင့်မြောက်ဖြစ်သော ယမိုက်ကျမ်းသည်လည်း မူလယမိုက်ကျမ်း, ခန္ဓယမိုက်ကျမ်း, အာယတနယမိုက်ကျမ်း, ဓာတုယမိုက်ကျမ်း, သစ္စယမိုက်ကျမ်း, သင်္ခါရယမိုက်ကျမ်း, အနုသယယမိုက်ကျမ်း, စိတ္တယမိုက်ကျမ်း, ဓမ္မယမိုက်ကျမ်း, ဣန္ဒြိယယမိုက်ကျမ်း–ဟူ၍ ဆယ်ကျမ်းရှိပြန်ရာတွင် မူလယမိုက်ကျမ်းကို ရှေးဦးစွာ ဟောတော်မူခြင်း၏ အကြောင်းအကျိုးကိုလည်းကောင်း၊ ၎င်း၏နောက် အခြားမဲ့၌ ခန္ဓယမိုက်ကျမ်းကို နှစ်ဆင့်မြောက်ဟောတော်မူခြင်း၏ အကြောင်းအကျိုးကိုလည်းကောင်း၊ ဤသို့စသည်ဖြင့် ရှေ့ကျမ်းနောက်ကျမ်း စီစဉ်၍ဟောတော်မူရာ၌ အကြောင်းအသီးသီး အကျိုးအသီးသီးကို သိလိုပါသည်။

ထိုဆယ်ကျမ်းသောယမိုက်ကျမ်းတို့မှာ အမာခံတရား, အထည်ခံတရား ဆယ်ပါးသာရှိ၏။ မူလယမိုက်ကျမ်းမှာ လောဘ, ဒေါသ, မောဟ, အလောဘ, အဒေါသ, အမောဟ– ဟူသော မူလခေါ်သော တရားခြောက်ပါးသည် အမာခံ

[*၁] လယ်တီဆရာတော်ကြီး၏ လန်ဒန်ပါဠိဒေဝီပုစ္ဆာဝိဿဇ္ဇနာပါဌ်နိသျ။ သုဝဏ္ဏဝတီပိဋကတ်ဓာတ်စက်ပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၁၄–ခုနှစ်။ (စာမျက်နှာ–၁)။

အထည်ခံဖြစ်၏။ခန္ဓယမိုက်ကျမ်းမှာ ခန္ဓာငါးပါးသည် အမာခံအထည်ခံဖြစ်၏။ ဤသို့စသည်ဖြင့် ယမိုက်ဆယ်ကျမ်းမှာ တရားဆယ်မျိုးသာရှိကုန်၏။ ဈာန်တရား, မဂ်တရားစသည် များစွာကျန်ရှိ၏။ ဈာန်တရားအတွက် ဈာနယမိုက်ကျမ်း, မဂ်တရားအတွက် မဂ္ဂယမိုက်ကျမ်း စသည်ဖြင့် ဟောတော်မူရန် များစွာကျန်ရှိ၏။ ထိုသို့ဖြစ်ပါလျက် တရားဆယ်မျိုးအတွက် ယမိုက်ဆယ်ကျမ်းကိုသာ ဟောတော်မူခြင်း၌ အကြောင်းအကျိုးကိုပြဆိုပါ။

ထိုယမိုက်ဆယ်ကျမ်းတို့မှာလည်း တစ်ခုတစ်ခုသော စကားအချက်, တရားအချက်,အနက်သဘော ထိုထိုနေရာမှာ အခါခါအထပ်ထပ်ရှိနေသည်ကား အလွန်ကြီးများပြား၏။ အလွန်ကြီးများပြားစွာ အခါခါအထပ်ထပ်ပါရှိ၍နေခြင်း၏ အကြောင်းအကျိုးကိုပြဆိုပါ။

ထိုယမိုက်ဆယ်ကျမ်းတို့တွင် အသီးအသီး တစ်ကျမ်းတစ်ကျမ်း၏လိုရင်းထက်လိုရင်းအကျဉ်းအချုပ် သရုပ်သဘောကိုပြဆိုပါ*[၁]–ဟူ၍ဖြစ်ပါသည်။

**လန်ဒန်ပါဠိဒေဝီ**

လယ်တီဆရာတော်ဘုရားကြီးထံတော်သို့ ပါဠိဘာသာဖြင့် ယမိုက်ပုစ္ဆာကိုမေးလျှောက်လာသူ ဒါယိကာမကြီးလန်ဒန်ပါဠိဒေဝီနှင့် သူမ၏ခင်ပွန်းဒေါက်တာရီးဒေးဗစ်တို့သည် ပါရမီထူးသောပုဂ္ဂိုလ်များဟုဆိုရပေမည်။ အနောက်နိုင်ငံသားအင်္ဂလိပ်လူမျိုးများဖြစ်ကြပါလျက် ပါဠိစာပေကို ရေးနိုင်,ဖတ်နိုင်,ပြောနိုင်သည်အထိကျွမ်းကျင်ကြပြီး ပါဠိတော်,အဋ္ဌကထာတို့ကိုလည်းကောင်းစွာ ဖတ်ရှုလေ့လာနိုင်သူတို့ဖြစ်ကြသည်။

ဒေါက်တာရီးဒေးဗစ်သည် မူလက အုပ်ချုပ်ရေးအရာရှိဖြစ်ပြီး သူအုပ်ချုပ်သောနယ်တွင် တရားသူကြီးအလုပ်ကိုလည်းလုပ်ကိုင်ရသည်။ အေဒီ ၁၈၆၆–ခုနှစ် သီဟိုဠ်ကျွန်း၌တာဝန်ကျစဉ် တောရွာတစ်ရွာ၌ အမှုတစ်ခုကိုစစ်ဆေးရာ တရားပြိုင်များက ဝိနည်းပါဠိတော်ကို ကိုးကား၍ ပြောကြသည်။ သို့ဖြင့် ပါဠိဘာသာရေး ဝိနည်းပါဠိတော်ကို သူစတင်တွေ့မြင်ဖူးလေသည်။ ထိုအခါမှစ၍ ဒေါက်တာရီးဒေးဗစ်သည် ပါဠိဘာသာကိုလည်းစိတ်ဝင်စားသွားပြီး သီဟိုဠ်ဇာတိရဟန်းတော်အရှင်ယတြမူလေဥန္နသေ(Yatramulle Unnase)*[၂] ထံမှ ပါဠိစာပေကိုသင်ယူခဲ့သည်။ ပါဠိစာပေများကိုလည်း ရသမျှစုဆောင်းလေ့လာခဲ့လေသည်။ သီဟိုဠ်၌တာဝန်ကုန်ဆုံး၍ အင်္ဂလန်နိုင်ငံသို့ပြန်ရောက်သောအခါ အေဒီ ၁၈၈၁–ခုနှစ် အမေရိကန်ပြည်ထောင်စု ဟာဗတ် (Hibbert)

*[၁] လယ်တီဆရာတော်ကြီး၏ သာသနဝိသောဓနီ၊ ဒုတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၁၅၊ ၁၆)။

*[၂] ဤ Yatramulle Unnase သည် သီရိလင်္ကာနိုင်ငံ မတရခရိုင် ဘန်တောတ (Bentota) တွင် သီတင်းသုံးပါသည်။ ဤအရှင်သည် ဒေါက်တာရီးဒေးဗစ်အလျင် သီဟိုဠ်ကျွန်းသို့ရောက်ရှိတာဝန်ထမ်းဖူးသော ပါဠိအဘိဓာန်ကျမ်းပြုဆရာ Dr. R.C. Childers ကိုလည်း ပါဠိသင်ပေးခဲ့ဖူးလေသည်။ A. Wickremeratne' The Genesis of an Orientalist. Motilal Banarsidass, Delhi. 1984. Page-151.

ထန်ဒန်မြို့၊
ဗုဒ္ဓဘာသာပါဠိတော်အသင်းကြီး၏စက္ကရီတေရီဖြစ်သူ
မစ္စစ်-ရှိုက်စ-ဒေဗစ်(M. A.)တောင်းပန်ချက်အရ

**အဂ္ဂမဟာပဏ္ဍိတ။**

ဘွဲ့တံဆိပ်တော်ရ

**လယ်တီဆရာတော်ဘုရားကြီး**

စီရင်ရေးသားတော်မူအပ်သော
ပဋ္ဌာနုဒ္ဒေသဒီပနီပါဠိ-နှင့်၊
ပဌမကျော်အရှင်ဥာဏထေရ်အဋ္ဌယောဇနာ
ဖြန့်ဆိုချဲ့ချိုအပ်သောနိဿယပါပုံးတွဲ
ပုံနှိပ်လုပ်ဆောင်အပ်သော

**ပဋ္ဌာနုဒ္ဒေသဒီပနီပါဠိနိဿယ။**

[ဆရာခန့်ဖြင်ဆင်သည်]၊

ပဌမကျော်အရှင်ဥာဏထေရ်၏အခွင့်အမိန့်အရ၊
မန္တလေးမြို့-ဈေးကြိုထော်၊ရတနာပုံစာအုပ်တိုက်ဆိုင်ရှင်
မင်းကထော်ကြီးမမညွန့်ကရိုက်နှိပ်ခြင်း၊
စာအုပ်ရေ( ၂၀၀၀ )၊

မန္တလေးမြို့၊
ဟံသာဝတီပိဋကတ်စာပုံနှိပ်တိုက်၊
1923

A

လယ်တီဆရာတော်ကြီး၏
လန်ဒန်ဒေဝီပဋ္ဌာန်းပုစ္ဆာအဖြေကျမ်း

II

## SOME POINTS IN BUDDHIST DOCTRINE[1]

BY LEDI SADAW

1.

THREEFOLD[2] is the omniscience of the Exalted Ones, the Buddhas: they know, exhaustively and as it really is, everything knowable; they know similarly the many methods of teaching about things knowable; they know similarly the individuals who are to be taught and enlightened: their prepossessions and predilections, their tendencies and power to choose, their inherited traits and their habits, their acts and attainments in previous lives. Now in the Abhidhamma-Piṭaka, the first five books[3] show

[1] The following is a selection of passages of general philosophic interest from the Pali essay on the Yamaka, published as an appendix to the second volume of that work (1912). In attempting a task of some difficulty, I have had the valuable aid of a searching correction of the whole of the translation in MS. by Mg. Shwe Zan Aung, who, as a master of Pali, English, and Abhidhamma, is exceptionally competent to advise, and who was also able to refer to the author for sanction and criticism. The first nine pages were rendered into provisional English for me by the kindness of Mr. D. B. Jayatilaka, who was unfortunately compelled, by the imminence of Oxford examinations and by his subsequent return to Ceylon, to abandon the translation. In the passages selected, the meaning has, I think, been faithfully rendered, while the form has been treated more freely, with slight excisions now and then.—C. A. F. RHYS DAVIDS.

[2] *Yam.*, II., p. 221, PTS edition.

[3] *Dhamma-Sangaṇi, Vibhanga, Dhātukathā, Puggala-Paññatti, Kathāvatthu.*

115

လန်ဒန်ပါဠိအသင်းဂျာနယ်၌ဖော်ပြထားသော
လယ်တီဆရာတော်ကြီး၏ယမိုက်ပုစ္ဆာအဖြေလွှာ



ဒေါက်တာရီးဒေးဗစ်



မစ္စစ်ရီးဒေးဗစ်(လန်ဒန်ပါဠိဒေဝီ)

တက္ကသိုလ်တွင် ပါဠိစာပေအကြောင်း၊ ဗုဒ္ဓသာသနာအကြောင်း[*၁] ဟောပြောရင်း လန်ဒန်ပါဠိကျမ်းစာအသင်းကိုတည်ထောင်မည်ဖြစ်ကြောင်းကိုပါ ထည့်သွင်းပြောကြားခဲ့သည်။ ထိုစဉ်က အနောက်နိုင်ငံတွင် သက္ကတဘာသာကိုသာ ဦးစားပေးလေ့လာနေကြသဖြင့် ပါဠိဘာသာမှာ လူသူမသိသေးသိမ်နေခဲ့ရသည်။ ပါဠိဘာသာကိုလေ့လာနေကြသူ အနည်းငယ်သာရှိသည်။[*၂] ယခု ဒေါက်တာရီးဒေးဗစ်က ပါဠိစာပေလေ့လာရေးကိုကမ္ဘာထပြန့်နှံ့ဆော်ကာ အနောက်နိုင်ငံအရပ်ရပ်(အထူးသဖြင့် ပိဋကတ်တိုက်ကြီးများ)၌ရောက်ရှိနေသောပါဠိပေစာများကို လိုက်လံစုဆောင်းပြီး သန့်စင်အောင်တည်းဖြတ်ခြင်း၊ အင်္ဂလိပ်ဘာသာသို့ပြန်ဆိုခြင်း–စသည့်လုပ်ငန်းများကိုလုပ်ကိုင်လာသဖြင့် များမကြာမီကာလအတွင်းမှာပင် ပါဠိစာပေကို အနောက်နိုင်ငံက ပညာရှင်များ အကျွမ်းဝင်သိရှိလာကြရသည်။

ဤသို့ အနောက်နိုင်ငံ၌ ပါဠိစာပေထွန်းကားအောင်ဆောင်ရွက်နေသူ ဒေါက်တာရီးဒေးဗစ်ထံတွင် လန်ဒန်ဒေဝီသည် ပါဠိစာပေကိုသင်ယူခဲ့ပြီး ထိုဆရာဖြစ်သူ ဒေါက်တာရီးဒေးဗစ်နှင့် အေဒီ ၁၈၉၄–ခုနှစ်တွင်အိမ်ထောင်ပြုခဲ့သည်။ လန်ဒန်ပါဠိဒေဝီသည် မိမိခင်ပွန်းသည် ဒေါက်တာရီးဒေးဗစ် ဆန္ဒပြည့်ဝစေရေးအတွက် ပါဠိစာပေလုပ်ငန်းများတွင် ပါဝင်လုပ်ဆောင်ခဲ့ပြန်ပါသည်။ လန်ဒန်ဒေဝီသည် စိတ်ပညာရပ်ကို ငယ်စဉ်ကပင်လေ့လာလိုက်စားခဲ့သူဖြစ်၍ ပါဠိစာပေကိုလေ့လာရာတွင်လည်း စိတ်အကြောင်းများစွာပါရှိသောအဘိဓမ္မာပါဠိတော်များကို သဲသဲမဲမဲစိတ်ဝင်တစားလေ့လာခဲ့သည်။သို့ဖြစ်၍ ပါဠိတော်တို့ကိုတည်းဖြတ်ရန်နှင့် ဘာသာပြန်ရန်တာဝန်ခွဲဝေယူကြရာ၌ လန်ဒန်ဒေဝီက ဓမ္မသင်္ဂဏီ၊ ဝိဘင်း၊ ကထာဝတ္ထု၊ ယမိုက်နှင့်ပဋ္ဌာန်းပါဠိတော်စသော အဘိဓမ္မာပိဋကပါဠိတော်ကြီးတို့ကို ရွေးချယ်တာဝန်ယူခဲ့သည်။ လန်ဒန်ဒေဝီသည် ဓမ္မသင်္ဂဏီပါဠိတော်ကို တစ်ဦးတည်းကြိုးစား၍ဘာသာပြန်ဆိုရာ ၁၉၀၀–ပြည့်နှစ်တွင်ပုံနှိပ်နိုင်ခဲ့သည်။[*၃] အေဒီ ၁၉၀၄–ခုနှစ်တွင် ဝိဘင်္ဂပါဠိတော်ကိုတည်းဖြတ်ပေးခဲ့ပါသည်။[*၄] အေဒီ ၁၉၁၅–ခုနှစ်တွင် လန်ဒန်ဒေဝီနှင့် ဦးရွှေဇံအောင်တို့ပူးပေါင်းကာ ကထာဝတ္ထုပါဠိတော်ကို အင်္ဂလိပ်ဘာသာသို့ပြန်ဆိုခဲ့သည်။[*၅] အေဒီ ၁၉၁၁–ခုနှစ်တွင် ယမကပါဠိတော်၊ ပထမတွဲနှင့် အေဒီ ၁၉၁၃–ခုနှစ်တွင် ယမကပါဠိတော်၊

---

*၁ Rhys Davids' Lectures on the Origins and Growth of Religion as Illustrated by Some points in the History of India. London, 1881. Page-70 ff.

*၂ ဥရောပ၌ ပါဠိဘာသာကို ဂျာမန်လူမျိုး August Wilhelm (အေဒီ ၁၇၆၇–၁၈၄၅)နှင့် Friedrich Wilhelm(၁၇၇၂–၁၈၂၉)တို့ ညီနောင်က စတင်လေ့လာခဲ့ကြသည်။ ထို့နောက် ပြင်သစ်ပညာရှင် E. Burnouf, George Turnour, ဒိန်းမတ် ပညာရှင် V. Fausboll, R.C. Childers စသည်လည်းပါဝင်ကြပါသည်။ I.B. Horner' Early Days of Western Pali Studies. The Middle Way, Vol. xxxix, No.3. 1964, Nov., Page-109.

*၃ ဤကျမ်းကို အေဒီ ၁၈၈၅–ခုနှစ်က E. Muller က တည်းဖြတ်ခဲ့ပြီးဖြစ်၍၊ အေဒီ ၁၉၀၀–ပြည့်နှစ်တွင် လန်ဒန်ဒေဝီက အင်္ဂလိပ်ဘာသာသို့ပြန်ဆိုခဲ့လေသည်။ Mrs. C.A.F. Rhys Davids' Buddhist Psychological Ethic. London, 1900.

*၄ Mrs. C.A.F. Rhys Davids' Vibanga. PTS, London, 1904.

*၅ S.Z.Aung and Mrs. C.A.F. Rhys Davids' Points of Controversy. PTS, London, 1915.

ဒုတိယတွဲတို့ကိုတည်းဖြတ်ပုံနှိပ်ခဲ့သည်။[*၁] ပဋ္ဌာနပါဠိတော်ကြီးနှင့်စပ်လျဉ်း၍ လန်ဒန်ဒေဝီသည် အေဒီ ၁၉၀၆–ခုနှစ်တွင် ဒုကပဋ္ဌာနပါဠိတော်၊ အေဒီ ၁၉၂၁–ခုနှစ်တွင် တိကပဋ္ဌာနပါဠိတော် ပထမတွဲ၊ အေဒီ ၁၉၂၂–ခုနှစ်တွင် တိကပဋ္ဌာနပါဠိတော်ဒုတိယတွဲ၊ အေဒီ ၁၉၂၃–ခုနှစ်တွင် တိကပဋ္ဌာနပါဠိတော် တတိယတွဲတို့ကို တည်းဖြတ်ပုံနှိပ်နိုင်ခဲ့ပါသည်။[*၂]

ထိုစဉ်အတွင်း လန်ဒန်ဒေဝီသည် အဘိဓမ္မတ္ထသင်္ဂဟ(သင်္ဂြိုဟ်)ကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုရာ အဆင်မပြေဖြစ်နေစဉ် မြန်မာနိုင်ငံမှလယ်တီဆရာတော်ကြီး၏တပည့် ဝန်ထောက်ကြီး ဦးရွှေဇံအောင်[*၃] က သူဘာသာပြန်ဆိုထားသော သင်္ဂြိုဟ်အင်္ဂလိပ်ဘာသာပြန်မူကို အင်္ဂလန်နိုင်ငံရှိ လန်ဒန်ဒေဝီထံပေးပို့လိုက်ပါသည်။ ဦးရွှေဇံအောင်၏ဘာသာပြန်မူကို လန်ဒန်ဒေဝီဖတ်ရလျှင် 'အလွန်ကောင်းမွန်ပြည့်စုံလှပေသည်'ဟု နှစ်သက်သဘောကျပြီး သူမ၏ဘာသာပြန်ဆိုမှုကို ရပ်နားလိုက်ပြီး ဦးရွှေဇံအောင်၏စာမူကိုပင်တည်းဖြတ်ကာ လန်ဒန်ပါဠိကျမ်းစာအသင်းမှ ၁၉၁၀–ပြည့်နှစ်တွင် Compendium of Philosophy-ဟူသောအမည်ဖြင့် ပုံနှိပ်ထုတ်ဝေပေးခဲ့ပါသည်။[*၄]

လန်ဒန်ဒေဝီသည် ဤအဘိဓမ္မတ္ထသင်္ဂဟခေါ် သင်္ဂြိုဟ်ကျမ်းဘာသာပြန်ကျမ်းပုံနှိပ်ရေးကိစ္စအတွက် ဝန်ထောက်ကြီးဦးရွှေဇံအောင်နှင့် အဘိဓမ္မာဆိုင်ရာပြဿနာများကို စာဖြင့်အပြန်ပြန် အလှန်လှန်ရေး၍ဆွေးနွေးကြရင်း ဦးရွှေဇံအောင်၏ဆရာဖြစ်သော လယ်တီဆရာတော်ဘုရားကြီးကိုလည်း ရင်းနှီးကျွမ်းဝင်ခဲ့ရသည်။

စင်စစ် လန်ဒန်ဒေဝီအပါအဝင် အနောက်နိုင်ငံပါဠိစာပေပညာရှင်များသည် 'လယ်တီဆရာတော်ဘုရားကြီး'ကို ၁၉၀၉–ခုနှစ်ကပင်သိရှိကြပြီးဖြစ်သည်။ သိကြပုံမှာ– မေဘယ် ဟိန်းဘုတ် (Mabel Haynes Bode, Ph.D.) အမည်ရှိသောဒါယိကာမကြီးတစ်ဦးက မြန်မာနိုင်ငံပါဠိစာပေသမိုင်း (The Pali Literature of Burma) အကြောင်းကိုပြုစုရေးသားလေရာ ထိုစာအုပ်ကို လန်ဒန်မြို့ အာရှတော်ဝင်အသင်း (The Royal Asiatic Society) က အထူးဆုရစာအုပ်အဖြစ် အေဒီ ၁၉၀၉–ခုနှစ်တွင်ပုံနှိပ်ပေးခဲ့သည်။ ထိုစာအုပ်၌ အေဒီ ၁၉–ရာစုအတွင်း မြန်မာနိုင်ငံအတွင်း ပါဠိစာပေဆိုင်ရာပုံနှိပ်စာမူများအကြောင်းဖော်ပြရာဝယ် 'လယ်တီဆရာတော်ကြီးသည် ဤခေတ်၌ အလွန်ထင်ရှားသော စာပေပညာရှင်မဟာထေရ်ကြီးတစ်ပါးဖြစ်ကြောင်း၊ ဆရာတော်ကြီးရေးသားပြုစု

---

*၁ Mrs. C.A.F. Rhys Davids' Yamaka, Vol.I. PTS, London, 1911; Yamaka, Vol.II. PTS, London, 1913.

*၂ Mrs. C.A.F. Rhys Davids' Dukapaṭṭhāna. PTS, London, 1906; Tikapaṭṭhāna, Vol.I. PTS, London, 1921; Tikapaṭṭhāna, Vol.II. PTS, London, 1922; Tikapaṭṭhāna, Vol.III. PTS, London, 1923.

*၃ ဦးရွှေဇံအောင်သည် အေဒီ ၁၈၇၁–ခုနှစ်တွင် ရခိုင်ပြည်နယ် စစ်တွေမြို့၌ဖွားမြင်၍၊ အေဒီ ၁၈၉၁–ခုနှစ်တွင် ထိုခေတ်က မြန်မာနိုင်ငံ၌အမြင့်ဆုံးဖြစ်သော ဝိဇ္ဇာ (B.A) ဘွဲ့ကို ဆွတ်ခူးရရှိခဲ့သည်။ ၁၈၉၂–ခုနှစ်တွင် ပညာရေးဌာန၌ ပညာအုပ်အဖြစ်၊ ၁၉၀၂–ခုနှစ်တွင် မြို့အုပ်၊ ၁၉၀၇–ခုနှစ်တွင် ဝန်ထောက်၊ ၁၉၀၉–ခုနှစ်တွင် အခွန်ဝန်–စသည်ဖြင့် နိုင်ငံ့တာဝန်များထမ်းရွက်ခဲ့သည်။ ၁၈၉၅–ခုနှစ်တွင် ဆရာတော်ဦးဂန္ဓမာ၊ ၁၈၉၆–ခုနှစ်တွင် လယ်တီဆရာတော်ကြီးတို့ထံမှ ပိဋကတ်စာပေများသင်ယူ၍ ပါဠိဘာသာကိုလည်းကျွမ်းကျင်သည်။ အထူးသဖြင့် စိတ်ပညာ၊ ဒဿနိကဘာသာတို့တွင် ထူးချွန်သူဖြစ်သည်။ မြန်မာ့စွယ်စုံ၊ အတွဲ–၁၁။ (စာမျက်နှာ–၄၂၉၊ ၄၃၀)။

*၄ Shwe Zan Aung' Compendium of Philosophy. PTS, London, 1910. Page-xii.

သောစာအုပ်စာပေများစွာရှိကြောင်း' ရေးသားထားပါသည်။ ထို့ပြင် အေဒီ–၁၉၀၅၊ ၁၉၀၆–ခုနှစ်တို့တွင်ပုံနှိပ်မှုအဖြစ်ထွက်ပေါ်လာသော လယ်တီဆရာတော်ကြီး၏ကျမ်းစာအချို့မှာ– (၁) နိရုတ္တိဒီပနီ၊ (၂) နိဗ္ဗာနဒီပနီ၊ (၃) ရူပဒီပနီ၊ (၄) ဗောဓိပက္ခိယဒီပနီ၊ (၅) အာနာပါနဒီပနီ၊ (၆) ပါရမီဒီပနီ၊ (၇) သဒ္ဒသင်္ခေပ(သဒ္ဒသံခိပ်)၊ (၈) ပဗ္ဗာဇနီယကမ္မဝါစာ၊ (၉) ဓမ္မဒီပနီ၊ (၁၀) မဂ္ဂင်ဒီပနီ၊ (၁၁) ပဋိစ္စသမုပ္ပါဒဒီပနီ၊ (၁၂) ပရမတ္ထသင်္ခေပ(ပရမတ္ထသံခိပ်)၊ (၁၃) သစ္စတ္တဒီပနီ၊ (၁၄) ဝိဇ္ဇာမဂ္ဂဒီပနီ၊ (၁၅) လက္ခဏဒီပနီ၊ (၁၆) အာဟာရဒီပနီ၊ (၁၇) သီလဝိနိစ္ဆယ၊ (၁၈) အနတ္တဒီပနီ၊ (၁၉) ဒါနာဒိဒီပနီ၊ (၂၀) ဓမ္မဒေသနာ–စသည်တို့ဖြစ်ကြကြောင်း ဖော်ပြထားပြန်ပါသည်။ ဤသို့အားဖြင့် လယ်တီဆရာတော်ဘုရားကြီးကို အေဒီ ၁၉–ရာစု၏မဟာဂန္ထ ကာရကကျမ်းပြုပုဂ္ဂိုလ်ကျော်ကြီးအဖြစ် အနောက်နိုင်ငံသားပါဠိစာပေပညာရှင်တို့က အသိအမှတ်ပြုခဲ့ကြပြီးဖြစ်လေသည်။[*၁]

လယ်တီဆရာတော်ပြုစုတော်မူသောကျမ်းများစွာရှိရာတွင် အဘိဓမ္မာဆိုင်ရာ ပရမတ္ထဒီပနီကျမ်းကို ဦးရွှေဇံအောင်က မြန်မာအက္ခရာမှမှ အင်္ဂလိပ်အက္ခရာသို့ဖလှယ်၍ လန်ဒန်မြို့သို့ပေးပို့ခဲ့ပါသည်။ လန်ဒန်ဒေဝီမှာ ထိုပရမတ္ထဒီပနီကျမ်းကိုဖတ်ရှုပြီးလျှင် 'ဋီကာကျော်ကဲ့သို့ သီဟိုဠ်ကျွန်းကရေးသားသော ကျမ်းလာအယူအဆတို့ကို လက်ခံယူငင်ခြင်းမပြုဘဲ မြန်မာတို့၏ကိုယ်ပိုင်အဘိဓမ္မာအမြင်သစ်တို့ကို ထုတ်ဖော်ပြသထားသဖြင့် ဤပရမတ္ထဒီပနီကျမ်းကို နှစ်သက်သဘောကျကြောင်း'ကို ဦးရွှေဇံအောင်၏သင်္ဂြိုဟ်ဘာသာပြန်နိဒါန်းမှာပင် လန်ဒန်ဒေဝီ ထည့်သွင်းရေးသားခဲ့လေသည်။[*၂]

ယခုအခါ လန်ဒန်ဒေဝီသည် ယမိုက်ပါဠိတော်ကိုတည်းဖြတ်ရာတွင် ယမိုက်ပါဠိတော်နှင့် စပ်လျဉ်း၍ မိမိတွေ့ရှိရသောအခက်အခဲတို့ကို လယ်တီဆရာတော်ကြီးထံတော်သို့ ပါဠိဘာသာဖြင့် တိုက်ရိုက်လျှောက်ထားခဲ့ခြင်းဖြစ်ပါသည်။

## လန်ဒန်ပါဠိဒေဝီပုစ္ဆာဝိသဇ္ဇနာပါဌ်

လယ်တီဆရာတော်ဘုရားကြီးသည် လန်ဒန်ဒေဝီ၏ယမိုက်ပုစ္ဆာကို ပါဠိဘာသာဖြင့်ချက်ချင်းပင်ဖြေဆိုပြီးလျှင် အင်္ဂလန်နိုင်ငံသို့ပေးပို့ခဲ့ပါသည်။[*၃] လန်ဒန်ဒေဝီလည်း ဆရာတော်ဘုရားကြီး၏

---

*၁ M.H. Bode' The Pali Literature of Burma. BRS, Rangoon, 1965 (reprint), Page-97, 98.

*၂ S.Z. Aung' Compendium of Philosophy. PTS, Page-xiii. လယ်တီဆရာတော်ကြီးကလည်း မိမိပြုစုသော ပရမတ္ထဒီပနီကို လန်ဒန်ဒေဝီ လွယ်လင့်တကူဖတ်ရှုနိုင်စေရန်နှင့် ခဲခက်သောအရာတို့ပေါ်လွင်စေရန် ရည်သန်၍ သက္ကရာဇ်–၁၂၆၂ (အေဒီ–၁၉၀၀) ပထမအကြိမ်ရိုက် ပရမတ္ထဒီပနီနှင့် သက္ကရာဇ်–၁၂၆၉ (အေဒီ–၁၉၀၇)ခုနှစ် ဒုတိယအကြိမ်ရိုက် ပရမတ္ထဒီပနီမူတို့ကိုပြင်ဆင်ခဲ့ပါသည်။ ထိုပြင်ဆင်သောမူကို 'လန်ဒန်မူ'ဟုခေါ်တွင်စေပါသည်။ နောက်နောင် ဤပရမတ္ထဒီပနီကျမ်းကိုရိုက်နှိပ်လျှင် 'လန်ဒန်မူ'အတိုင်းသာရိုက်နှိပ်ရန် အမှာတော်ရှိခဲ့ပါသည်။ လယ်တီဆရာတော်ကြီး၏ ပရမတ္ထဒီပနီ။ ကဝိမျက်မှန်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၉၂–ခုနှစ်။ (စာမျက်နှာ–၄)။

*၃ လယ်တီဆရာတော်ဘုရားကြီး၏ လန်ဒန်ပါဠိဒေဝီပုစ္ဆာဝိသဇ္ဇနာပါဌ်နိသျ။ သုဝဏ္ဏဝတီပိဋကတ်ခာတ်စက်ပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၁၄–ခုနှစ်။ (စာမျက်နှာ ၃–၇၈)။ ဤပုစ္ဆာဝိသဇ္ဇနာပါဌ်၏နိသျကို ဆရာတော်ဘုရားကြီး၏တပည့်တစ်ဦးက ပြုစုခဲ့ပါသည်။ ထိုနိသျကျမ်းပြုပုဂ္ဂိုလ်၏ဘွဲ့အမည်ကို အတိအကျမသိရပါ။ ယင်း။ (စာမျက်နှာ ၇၈–၃၃၀)။ ဤ ယမိုက်ပုစ္ဆာအမေးအဖြေ၏ မြန်မာပြန်သက်သက်ကိုကား လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးက 'ယမိုက်အဖြေကျမ်း' ဟူသောအမည်ဖြင့် ရေးသားခဲ့ပါသည်။

ပုစ္ဆာဝိသဇ္ဇနာအဖြေလွှာကိုရလျှင် နှစ်သက်သဘောကျပြီး အောက်ပါအတိုင်း လယ်တီဆရာတော်ဘုရားကြီးထံတော်သို့ စာဖြင့်လျှောက်ထားခဲ့သည်။

'လယ်တီဆရာတော်၏ဖြေဆိုချက်များသည် ကျွန်ုပ်တို့မေးချက်ကို ပြေကုန်ရုံမျှမက စကားအစွန်းထွက်ပေါ်လာသမျှတို့တွင် ကျွန်ုပ်တို့နှင့်အထူးသင့်လျော်မည့် အချက်တို့ကို အဆင့်ဆင့်ထုတ်ဖော်၍ဖြေဆိုတော်မူပေသည်။ ၎င်းဖြေဆိုတော်မူချက်များမှာလည်း အနက်အဓိပ္ပာယ်ရှင်းလင်းသဖြင့် ဉာဏ်သဘောပွင့်လင်းနိုင်လောက်အောင် ခင်းကျင်းစီမံတန်ဆာဆင်၍ ကြည်လင်သန့်ရှင်းပြေပြစ်ချောမောသော ပါဠိဘာသာဝစနာလင်္ကာရစကားတို့ဖြင့် ဖြေဆိုတော်မူပေသည်။

၎င်းဖြေဆိုတော်မူချက်တွင် သက်သေသာဓကဖော်ပြကိုးကားသော ကျမ်းဂန်စကားများမှာလည်း ဋီကာအစရှိသော နောက်ဖြစ်နောက်ပွားကျမ်းဂန်များကို ပြဆိုသည်မဟုတ်၊ ပိဋကတ်တော်ထွက် ပါဠိတော်စကားများကိုသာ ကိုးကားဖော်ပြတော်မူသည့်ပြင် ခက်ခဲနက်နဲသော ဗုဒ္ဓဘာသာဒေသနာတော်ကြီး၌ ကျွန်ုပ်တို့သန္တာန်ဝယ် အသိအလိမ္မာဉာဏ်ပညာတရား တိုးပွားထွန်းတောက် အမျိုးမျိုးပေါက်ရောက်၍ သွားနိုင်ကြစေရန် ၎င်းပါဠိတော်စကားများကိုလည်း အနက်သွားအဓိပ္ပာယ်သွား ထင်ရှားပေါ်လွင်အောင် ချဲ့ထွင်ဖွင့်ပြတော်မူပေသည်။

သို့ချဲ့ထွင်ဖော်ပြတော်မူသည့်အရာမှာလည်း သုတ္တန်,အဘိဓမ္မာဒေသနာတော် နှစ်ပါးတို့၏ဆိုင်ရာဗုဒ္ဓဘာသာသာသနာတွင် လွန်စွာခက်ခဲနက်နဲလျက်ရှိနေကြသည့် အနတ္တတရား, ပဋိစ္စသမုပ္ပါဒ်တရားတို့နှင့် နိဗ္ဗာန်တရားတို့ကို ကျွန်ုပ်တို့ဉာဏ်တွင် ထင်လင်း၍သွားလောက်အောင် ရေးသားဖော်ပြတော်မူပေသည်။

ဤကဲ့သို့ ဗုဒ္ဓဘာသာအတွက် ခက်ခဲနက်နဲသောတရားကြီးများကို ထင်ရှားအောင်ဖော်ပြတော်မူသည့်အရာများသည် ၎င်းတို့ကို ဖတ်ရှုတွေ့မြင်ကြသူအပေါင်းတို့အား ထိုကဲ့သို့ ခက်ခဲနက်နဲသောအရာတို့၌ ထိုးထွင်းထင်လင်းနိုင်သော ဉာဏ်ပညာမျိုး ကေန်မုချတိုးပွားနိုင်ကြမည့်အရာများဖြစ်ပေ၍ ဆရာတော်ကြီးရည်ရွယ်တော်မူချက်အတိုင်း အလိုတော်အလျောက် ပြီးမြောက်စေရန် ၎င်းအဖြေကျမ်းစာကို ပါဠိဘာသာအတိုင်းမှာ အင်္ဂလိပ်အက္ခရာပြန်ဆိုပြီးလျှင် ယခုထုတ်သည့် ဒုတိယယမိုက်စာအုပ်တွင် နောက်ဆက်တွဲအနေဖြင့် ထည့်သွင်းရပေသည်မှာ အကျွန်ုပ်တို့များစွာဝမ်းမြောက်ဝမ်းသာရှိကြပါသည်။ ၎င်းဆရာတော်ကြီး၏အဖြေကျမ်းစာကို (ဂျော်နယ်)ခေါ် ပါဠိဘာသာသတင်းစာ (Pali Texts Society's Journal) တွင်လည်း အင်္ဂလိပ်ဘာသာပြန်ဆို၍ ထည့်သွင်းပေလိမ့်မည်ဟု ကျွန်ုပ်တို့အသင်းက မျှော်လင့်လျက်ရှိနေကြပါသည်။*၁

*၁ Ledi Sadaw' Some Points in Buddhist Doctrine. ဟူသော အဖြေလွှာကို JPTS, 1913-1914. Page-115-124. တွင် ထည့်သွင်းဖော်ပြထားခြင်းဖြစ်ပါသည်။

ကျွန်ုပ်တို့အမေးပုစ္ဆာတွင် ကျွန်ုပ်တို့အဖို့အရာနှင့် ဖြေဆိုဖွင့်ပြတော်မူသမျှ တရားအချက် အနက်အနဲတို့ကို မြန်မာနိုင်ငံ၌ အစဉ်အဆက် အသိဉာဏ်အလိမ္မာတရားတိုးတက်ပွားများကြလေအောင် ရွက်ဆောင်တော်မူပေသည်ဖြစ်၍ ယခုအခါ မြန်မာနိုင်ငံသူနိုင်ငံသားတို့၏ ကိုးစားရာသဖွယ်ဖြစ်တော်မူပေသည့်အတိုင်း အကျွန်ုပ်တို့အား သနားကြည်ဖြူဖြေဆိုတော်မူပေသည့်အတွက် လန်ဒန်ပါဠိဒေဝီ၏မေးချက်နှင့် ဆရာတော်ကြီး၏ဖြေချက်များကို ဖတ်ရှုကြသူအပေါင်းတို့မှာလည်း ကျွန်ုပ်တို့ ကဲ့သို့ပင် ၎င်းအဖြေ၏အကျိုးကျေးဇူးများကိုခံစံကြရလိမ့်မည်ဟု ကျွန်ုပ်တို့ယုံကြည်ကြပါကုန်သည်။ အရှေ့နိုင်ငံပညာရှိကြီးများနှင့် အနောက်နိုင်ငံရှိ ဗုဒ္ဓဘာသာအသင်းကြီးများ ဤကဲ့သို့ ဗုဒ္ဓဘာသာဉာဏ်ပညာချင်း ပေါင်းသင်းဆက်နွယ်မိကြသည့် အကြောင်းအရာများသည် ကမ္ဘာထက်ဝန်းအစဉ်ထွန်းအောင် မော်ကွန်းကြီးတစ်ခု ပြုလုပ်ရေးသားတင်ထားထိုက်သည့်အရာဖြစ်ပေ၍ ထိုကဲ့သို့ မော်ကွန်းရေးသားတင်ထားရန်အရေးမှာ ကျွန်ုပ်တို့စွမ်းအားရှိသမျှ ဝမ်းမြောက်ဝမ်းသာပြုလုပ်ဆောင်ရွက်ပါမည်။

ကျွန်ုပ်တို့သည် ၎င်းယမိုက်ဒေသနာတော်၏အလင်းကိုရနိုင်ကြရန် အတန်ဝေးကွာကြသည်ဖြစ်သော်လည်း ကျွန်ုပ်တို့မေးလျှောက်ချက်ကို ဆရာတော်က ပြေကုန်ရုံတွင်မက ကရုဏာကြီးလှ၍ ဓမ္မအချက် အနက်အနဲများစွာတို့ကို အပါအဝင်ထည့်သွင်း၍ အလင်းဖော်ပြဖြေဆိုတော်မူပေသည့်အတွက် ကျွန်ုပ်တို့အသင်းမှာ ရထိုက်သမျှအလင်းစုကိုပင် ယခုပင်ရကြပေကုန်သည်။

ဤအဖြေကျမ်းသည် ကျွန်ုပ်တို့အား အစဉ်အမြဲ နက်နဲသောဉာဏ်ပညာအရောင်အလင်းကိုပေးမှုနှင့် ကျေးဇူးပြုပေလိမ့်မည်ဖြစ်၍ ကျွန်ုပ်အသင်းသားတို့၏ ကိုးစားရာကြီးဖြစ်ပေသည်။

ဗုဒ္ဓမြတ်စွာဘုရား၏လက်ထက်တော်မှာ တစ်ရံရောအခါ ဂေါသိင်္ဂမည်သောအင်ကြင်းတောကြီးအတွင်း ရင်းဖျားမလွတ် ပင်လုံးကျွတ်ပွင့်ကြသည့် လပြည့်နေ့အခါတွင် ထေရ်သင်္ဃာအစည်းအဝေး၌ အမေးအဖြေ ဖြစ်ပွားကြလေသည်မှာ– 'ယခုဤကဲ့သို့ ကြည်လင်သန့်ရှင်း ရနံ့တွေထုံသင်းလျက် ရွှေလမင်းထိန်ညီးသည့်တောမြိုင်ကြီးအလယ်မှာ အဘယ်လိုရဟန်းများသည် ဤတော၏ကျက်သရေကို တင့်တယ်သည်ထက် တင့်တယ်စေနိုင်မည်နည်း'ဟု အရှင်သာရိပုတ္တရာကမေးလေရာ အသီးအသီးဖြေဆိုကြသည့်အနက် အရှင်မဟာမောဂ္ဂလာန်၏ဖြေဆိုချက်မှာ 'အဘိဓမ္မာတတ်ပုဂ္ဂိုလ်များ၊ အဘိဓမ္မာစကား အုန်းအုန်းဆူပြောဆို၍နေကြဖို့ လျော်လှ၏။ အဘိဓမ္မာတတ်ပုဂ္ဂိုလ်များမှသာ ဤတော၏ကျက်သရေကို တင့်တယ်သည်ထက် တင့်တယ်စေနိုင်ရာသည်'ဟူ၍ ဖြေပေ၏။

ယခုအခါ လန်ဒန်ရွှေမြို့တော်မှ ပုဒ္ဓဘာသာအဘိဓမ္မာအမေး၊ မန္တလေးရွှေမြို့တော်မှ ပုဒ္ဓဘာသာအဘိဓမ္မာအဖြေများသည် ဤဥပမာနှင့်တူချေသည်–ဟူ၍ ဖြစ်ပါသည်။[*၁]

ထို့ပြင် ထိုလန်ဒန်မြို့ ပါဠိကျမ်းစာအသင်းကရိုက်နှိပ်ခဲ့သော ယမိုက်ပါဠိတော်မူစာအုပ်၌ ချို့ယွင်းသောစကားလုံးများစွာပါရှိလေရာ လယ်တီဆရာတော်ဘုရားကြီးက ထိုချို့ယွင်းချက်တို့ကို ပြုပြင်ပေးတော်မူပါသဖြင့်၊ လယ်တီဆရာတော်ဘုရားကြီး၏ပြင်ဆင်ချက်များကို လန်ဒန်မူယမိုက်ပါဠိတော်၊ ဒုတိယအုပ်၏နောက်ဆက်တွဲမှာပင်ထည့်သွင်းပုံနှိပ်ရန်အစီအမံများပြုလုပ်ခဲ့ကြသည်။[*၂]

ခန္ဓာ–အာယတန–ဓာတ်–သစ္စာလက်ာ

သက္ကရာဇ် ၁၂၇၃–ခုနှစ်၊ တပေါင်းလ (အေဒီ ၁၉၁၂–ခုနှစ်၊ ဖေဖော်ဝါရီလ)တွင် လယ်တီဆရာတော်ဘုရားကြီး မန္တလေးမြို့အနောက်ပြင်ရွှေတချောင်းအနီးရှိ ဥယျာဉ်စံကျောင်း[*၃]၌ သီတင်းသုံးတော်မူလျက် စက္ကူတော်ကို သမားတော်များကကုသပေးနေကြပါသည်။ ထိုစဉ်အတွင်း သမားတော်ကြီးလည်းဖြစ် ဆရာတော်ဘုရားကြီး၏တပည့်ဒါယကာရင်းလည်းဖြစ်သော မန္တလေးမြို့ ပုဒ္ဓဘာသာသာသနာပြုအသင်း၏ဥက္ကဋ္ဌ အငြိမ်းစားပညာအုပ်ဦးကျော်ရန်က ဒါယကာ,ဒါယိကာမ အပေါင်းတို့ ခန္ဓာ,အာယတန,ဓာတ်,သစ္စာတို့ကို နှုတ်ဖျားရွရွကျက်မှတ်၍ ကလျာဏပုထုဇဉ် အဖြစ်သို့ရောက်နိုင်ရန် ဆိုင်ရာလက်ာများ ရေးသားချီးမြှင့်တော်မူပါမည့်အကြောင်း လျှောက်ထားခဲ့သည်။[*၄]

ဤသို့ ဦးကျော်ရန်၏လျှောက်ထားချက်ကို အကြောင်းပြု၍ပင် လယ်တီဆရာတော်ဘုရားကြီးက– 'ရူပက္ခန္ဓာ၊ ဝေဒနာနှင့်၊ သညာ, သင်္ခါရ၊ ဝိညာဏဟု၊ အစုငါးတန်၊ ငါးရပ်ခန်'–အစရှိသော ခန္ဓာငါးပါးလက်ာ၊[*၅] 'ထွေထွေလာလာ၊ များတကာတို့ တည်ရာစုရာ၊ သက်ရောက်ရာကို၊

---

[*၁] နိုင်ငံခြားပုဒ္ဓဘာသာသာသနာပြုအသင်းကြီး ဖွဲ့စည်းတည်ထောင်အောင်မြင်ထမြောက်ခြင်းအကြောင်းကို ပြဆိုအပ်သော အတ္ထုပ္ပတ္တိစာတမ်း။ ပုဒ္ဓဘာသာသာသနာပြုအသင်းသတင်းစာပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၂၇၅–ခုနှစ်။ (စာမျက်နှာ ၂၃–၂၆)။

[*၂] A List of Additions and Corrections to a dissertation on the Yamaka by Ledi Sadaw, published as appendix to Yamaka, Vol.II. PTS, London, 1913.

[*၃] မင်းတုန်းမင်းလက်ထက်အခါက မန္တလေးမြို့သစ်တည်ရာတွင် မြို့တော်စည်ကားစေရန်နှင့် အသီးအနှံ၊ ပန်း–စသည်ရာသီမရွေးဆွတ်ခူးရရှိနိုင်ရန် မန္တလေးတောင်၏အရှေ့မှ တောင်သို့တန်းလျက် ဥယျာဉ်တော်များထားရှိခဲ့သည်။ မှတ်တမ်းအရ ဥယျာဉ်တော်(၂၀)ခန့်ရှိလေသည်။ ယခုအခါ ထိုဥယျာဉ်များသည် လူနေရပ်ကွက်များဖြစ်ခဲ့ကြလေပြီ။ နတ်မောက်ထွန်းရှိန်၏ ဝင်းတွေနှင့်တည်ခဲ့သည့်မင်းနေပြည်။ ၂၀၀၄–ခုနှစ်။ (စာမျက်နှာ–၁၀၁၊ ၁၀၂)။ ထို့ပြင် မန္တလေးမြို့အနောက်ပြင် ရွှေတံချောင်းအနီး၌ ယခုတိုင် ဥယျာဉ်နှင့်ဥယျာဉ်လုပ်ငန်းများရှိနေသော်လည်း လယ်တီဆရာတော်ဘုရားကြီးသည် မည်သည့်ဥယျာဉ်ကို စံကျောင်းအမှတ်ဖြင့်သီတင်းသုံးတော်မူခဲ့သည်ကိုမသိရသဖြင့် ဤနေရာ၌ အတိအကျနေရာဖော်ညွှန်းခြင်းမပြုနိုင်ပေ။

[*၄] လယ်တီဆရာတော်ဘုရားကြီး၏ ခန္ဓာ–အာယတန–ဓာတ်–သစ္စာလက်ာကျမ်း။ SPB Press, Mandalay,1912.Page-2.

[*၅] ယင်း။ (စာမျက်နှာ–၁)။




အလွန်ရခဲ၊တွေ့ခဲ၊ကြုံကြိုက်ခဲဖွယ်ရှိသော၊
နဝမခဏ။ဗုဒ္ဓုပ္ပါဒ-ဒုလ္လဘ၊ ဘုရားသာသနာတော်တွင်းဝယ်၊
ခန္ဓာ-အာယတန-ဓါတ်-သစ္စာ-ပဋိစ္စသမုပ္ပါဒ်-သတိပဋ္ဌာန်
စသည့်တို့နှိုက်၊သင်ခြင်း၊ဆွေးနွေး-မေးမြန်းခြင်း၊
နာခြင်း၊မှတ်ဆောင်ခြင်း၊ဆင်ခြင်ခြင်း-ဟု
ဆိုအပ်သော၊ကလျာဏပုထုဇဥ်အဖြစ်
သို့၊ရောက်ကြစေခြင်းအကျိုးငှါ၊
သုံးဖြာ-ပိဋကတ်၊
ပရိယတ်နှိုက်၊
ကမ်းခတ်ပါရဂူ၊တတ်မြောက်
တော်မူသဖြင့်၊ဇမ္ဗူတိုင်းလုံး၊လွှမ်းဘုံး
ကျော်ကြား၊ ထင်ရှား-မျှုံနှံ့-တော်မူသည့်

# ဓိရာလယ်တီဆရာတော်ဘုရားကြီး။

## ကိုယ်တော်တိုင်ရေးသားစီရင်တော်မူအပ်သော

# ခန္ဓာ-အာယတန-ဓါတ်သစ္စာလင်္ကာကျမ်း။

ပဌမနှိပ်ခြင်း-စာအုပ်ရေ(၃၀၀၀)
ယခု ဒုတိယာနှိပ်ခြင်း-စာအုပ်ရေ ( ၁၀၀၀၀ )

S.P.B. Press, Mandalay.

1 9 1 2 .

အတိုး-၂-ပဲ၊






လယ်တီဆရာတော်ကြီးအား
ခန္ဓာ,အာယတန,ဓါတ်,သစ္စာလင်္ကာများကို
ရေးသားတော်မူပါရန်ပန်ကြားခဲ့သော
ပညာဝန်ဦးကျော်ရန်

အာယတန၊ ခေါ်ဆိုကြ’–အစချီသော အာယတနလင်္ကာ၊[*၁] ‘သတ္တဝါအလို၊ ပုဂ္ဂိုလ်အကြိုက်၊ မလိုက်မစား၊ မငဲ့ငြားဘဲ၊ ကြောင်းအားလျော်စွာ၊ သူ့ခြင်းရာနှင့်၊ သူ့သဘာဝ၊ သူ့ကိစ္စကို၊ ဆောင်ကြသမှု၊ အကြောင်းပြု၍၊ ဓာတ်ဟုသညာ’[*၂]–အစချီသော ဓာတ်လင်္ကာ၊ ‘အဓွန့်ရှည်စွာ၊ ဘယ်မျှကြာလည်း၊ အခါတဘန်၊ မဖောက်ပြန်ဘဲ၊ အစဉ်မြဲကို၊ သစ္စာဆို၏’[*၃]–အစချီသော သစ္စာလင်္ကာ–စသည်ဖြင့် လင်္ကာ(၁၀)ပုဒ်တို့ကိုရေးသားဖွဲ့ဆိုတော်မူခဲ့ပါသည်။

မင်းတုန်းမင်းကြီးခေတ် မန္တလေးရတနာပုံမြို့တော်ကြီး၌ လေးပြင်လေးရပ်တို့တွင် ဓမ္မာရုံ၊ ဓမ္မဌာနရုံများဆောက်လုပ်ပေးပြီး ထိုဓမ္မာရုံ၊ ဓမ္မဌာနရုံတို့တွင် ဥပုသ်ဆောက်တည်သူများအား ကလျာဏ၊ အန္ဓ မေးမြန်းကာခွဲဝေခဲ့ကြ၏။ ကလျာဏဖြစ်လျှင် ငါးမူးဆုချ၏။ အန္ဓမှာ နှစ်မူးတစ်ပဲရ၏။[*၄] သို့လျှင် ဗုဒ္ဓဘာသာဝင်သူတော်စင်တို့အား မဂ်,ဖိုလ်အခြေရစေရန်ရည်သန်လျက် အန္ဓပုထုဇဉ်ဘဝမှ ကလျာဏပုထုဇဉ်ဘဝတက်လှမ်းနိုင်ကြစေခြင်းငှာ မင်းတုန်းမင်းဆောင်ရွက်ခဲ့ပုံတို့ကို လယ်တီဆရာတော်ဘုရားကြီးသည် ကောင်းစွာသိမြင်တော်မူခဲ့သည့်အတိုင်း မိမိနှင့်စပ်သော တပည့်ဒါယကာ,ဒါယိကာမအပေါင်းတို့အားလည်း ခိုင်မာသောဗုဒ္ဓဘာသာဝင် ကလျာဏပုထုဇဉ်မျိုးဖြစ်စေလိုသောဆန္ဒကြီးမားတော်မူခဲ့သောကြောင့်ပင် သံခိပ်လင်္ကာ(၆၆၀)တို့ဖြင့် အကျယ်တဝင့်ရေးဖွဲ့ထားသော ရုပ်တရား,နာမ်တရား,ပရမတ္ထတရား(ပရမတ္ထသံခိပ်)များကို မကျက်စားနိုင်သူတို့အတွက် အလွန်အကျဉ်းချုံးပြီး ခန္ဓာငါးပါးအတွက်လင်္ကာ(၇)ပုဒ်၊ အာယတန(၁၂)ပါးအတွက်လင်္ကာ(၁)ပုဒ်၊ ဓာတ်(၁၈)ပါးအတွက်လင်္ကာ(၁)ပုဒ်၊ သစ္စာလေးပါးအတွက်လင်္ကာ(၁)ပုဒ်–စသည် စုစုပေါင်းလင်္ကာ(၁၀)ပုဒ်ကို ရေးဖွဲ့ပေးတော်မူခြင်းဖြစ်သည်။

လယ်တီဆရာတော်ဘုရားကြီးရေးဖွဲ့ထားသည့်လင်္ကာလာအတိုင်း ခန္ဓာငါးပါးကို ပိုင်းခြားစေ့ငုခွဲခြားရေတွက်တတ်ကာ ဆင်ခြင်နှလုံးသွင်းနိုင်ပါမူကား၊ ထို့အတူ အာယတန(၁၂)ပါး၊ ဓာတ်(၁၈)ပါး၊ သစ္စာ(၄)ပါး–စသည်တို့ကိုလည်း ခွဲခြားရေတွက်ဆင်ခြင်နှလုံးသွင်းနိုင်ပါမူကား ထိုပုဂ္ဂိုလ်သည် သာသနာလောက၌မဂ်ဖိုလ်မရသေးသည့်ပုထုဇဉ်ဖြစ်ငြားလည်း နိမ့်ကျသောအန္ဓပုထုဇဉ်မျိုးမဟုတ်ဘဲ ထူးခြားတင့်တယ်ဘုရားအလိုကျဖြစ်သော အထက်တန်းစားဗုဒ္ဓဘာသာဝင်(တစ်နည်း) ကလျာဏပုထုဇဉ်ဖြစ်နိုင်ကြောင်း အဋ္ဌကထာ၊ ဋီကာကျမ်းများ၌ ညွှန်ပြထားပြီးဖြစ်ပါသည်။[*၅]

---

[*၁] လယ်တီဆရာတော်ဘုရားကြီး၏ ခန္ဓာ-အာယတန-ဓာတ်-သစ္စာလင်္ကာကျမ်း။ (စာမျက်နှာ–၁၃)။

[*၂] ယင်း။ (စာမျက်နှာ–၁၅)။

[*၃] ယင်း။ (စာမျက်နှာ–၁၇)။

[*၄] ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး၊ တတိယတွဲ။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၄၅၂)။

[*၅] တတ္ထ ယဿ ခန္ဓဓာတုအာယတနာဒီသု ဥဂ္ဂဟပရိပုစ္ဆာသဝနဓာရဏာပစ္စဝေက္ခဏာနိ နတ္ထိ၊ အယံ အန္ဓပုထုဇ္ဇနော။ ယဿ တာနိ အတ္ထိ၊ သော ကလျာဏပုထုဇ္ဇနော– ဒီ၊ ဋ္ဌ၊ ၁။ ၅၉။ တတ္ထ ယဿ ခန္ဓာယတနဓာတုဣန္ဒြိယသစ္စပဋိစ္စသမုပ္ပါဒါဒိဘေဒေသု ဓမ္မေသု ဥဂ္ဂဟ ပရိပုစ္ဆာ ယောနိသောမနသိကာရော နတ္ထိ၊ သော အန္ဓပုထုဇ္ဇနော။ ယဿေတံ အတ္ထိ၊ သော ကလျာဏပုထုဇ္ဇနော– အရှင်ဗုဒ္ဓရက္ခိတ၏ ဇိနာလင်္ကာရဋီကာပါဌ်။ သုဓမ္မဝတီစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၄၀–ပြည့်နှစ်။ (စာမျက်နှာ–၁၇)။

### ဘွဲ့တံဆိပ်အတွက်အကြံပေးစာလွှာ

သက္ကရာဇ် ၁၂၇၃–ခုနှစ်ကုန်လု တန်ခူးလဆန်း ၁၅–ရက် (အေဒီ–၁၊ဧပြီလ၊၁၉၁၂–ခုနှစ်) တွင် အစိုးရမင်းတို့က 'မြန်မာနိုင်ငံ၌ ပိဋကတ်စာပေပညာတတ်မြောက်ကြသူ ရဟန်းရှင်လူတို့အား ပညာအရည်အချင်းအလိုက်ရွေးချယ်ညှိနှိုင်းပြီး ဘွဲ့တံဆိပ်နှင့်ငွေတော်များကိုထောက်ပံ့လိုပါ၍ မည်သည့်ပညာအဆင့်အတန်းမှာ မည်သည့်ဘွဲ့တံဆိပ်မျိုးနှင့် သင့်လျော်သည်ကို ဆရာတော်သဘောရှိရာမိန့်ကြားတော်မူပါ၊ ဘွဲ့တံဆိပ်နှင့်စပ်၍ သီဟိုဠ်ကအကြံပေးချက်တို့ပါ ပူးတွဲတင်ပြပါသည်၊ ဆရာတော်ဘုရားကြီး ကြည့်ရှုတော်မူပြီး သင့်ရာကိုအမိန့်ရှိတော်မူပါက လိုက်နာပါမည့်အကြောင်း' လျှောက်လွှာရေးပို့လာပါသည်။[*၁]

ထိုအခါ လယ်တီဆရာတော်ဘုရားကြီးက ရဟန်းဖြစ်လျှင် 'တိပိဋကဓိဒ္ဓအဂ္ဂမဟာပဏ္ဍိတဓရ'၊ လူဖြစ်ခဲ့လျှင် 'တိပိဋကဓိဒ္ဓအဂ္ဂမဟာပဏ္ဍိတဓဇ'–စသည်ဖြင့် ဘွဲ့တံဆိပ်တို့ကိုဖန်တီးပေးနိုင်ကြောင်း အကြံပြုတော်မူပါသည်။ ထို့ပြင် ထိုလျှောက်လွှာ၌ပင် 'ပါဠိဘာသာကိုကောင်းစွာ တတ်မြောက်ရုံနှင့်မဟုတ်သေးဘဲ မိမိတတ်သည့်လိမ္မာပညာတို့နှင့် နိုင်ငံမြို့ရွာတို့ကိုတတ်သိလိမ္မာ တည်ကြည်ငြိမ်သက်ဖြစ်စေရန် ဆောင်ရွက်နိုင်ရမည်'ဟူသော အချက်လည်းပါရှိရာ ထိုအချက်နှင့်စပ်၍ လယ်တီဆရာတော်ဘုရားကြီးက 'ဤအင်္ဂါနှင့်ပြည့်စုံသူအလွန်ရှား၏။ ယခုအခါ မြန်မာနိုင်ငံပေါ်မှာရှာကြ၍ ပုဂ္ဂိုလ်လေးပါး,ငါးပါးရနိုင်ရန် ခဲယဉ်း၏'ဟု မှတ်ချက်ချရေးသားတော်မူခဲ့ပါသည်။[*၂]

### သတ္တစတ္တာလီသမဝါကပ်တော်မူခြင်း

သက္ကရာဇ်–၁၂၇၄ နှစ်ကူး (အေဒီ–၁၉၁၂၊ ဧပြီလ)သို့ရောက်သောအခါတွင် လယ်တီဆရာတော်ဘုရားကြီး၏စက္ခုတော်မှာသက်သာခြင်းမရှိဘဲ တိုး၍သာဝေဝါးလာသည်ဖြစ်၍ သမားတော်ကြီးဦးကျော်ရန်နှင့် အခြားဒါယကာကြီးများတိုင်ပင်ကာ ယခုနှစ်ဝါကို စစ်ကိုင်းမှာကပ်ရန်နှင့် ဝါတွင်းကာလ သမားတော်ကြီးများက အနီးကပ်ပြုစုကြရန် ဆုံးဖြတ်ခဲ့ကြသည်။ ထိုအခါ ဆရာတော်ဘုရားကြီးဝါကပ်မည့်နေရာသည် ရာသီဥတုမျှတ၍ မြစ်ဆိပ်ကမ်းအနီးဖြစ်လျှင် သင့်မည်ဟု အကြံပေးကြပြန်၏။

သို့ဖြစ်၍ စစ်ကိုင်းတောင်ရိုး၌ ရေးကလေ့ဟောင်းများပြုပြင်ရာ လေ့နာရုံခေါ် ဇေတဝန်ဘုရားအရှေ့မြောက်ဘက် ဧရာဝတီမြစ်ဆိပ်ကမ်းနဖူးနေရာတွင် ဝါကပ်ဆိုကသင့်မည်ဟု နေရာဌာနကိုရွေးချယ်ခဲ့ကြပါသည်။ ထိုနေရာမှာပင် ရန်ကုန်မြို့မှ အငြိမ်းစားရဲအင်စပိတ်တော်ဦးဘော၊ ဒေါ်ဖွားခင်တို့က တစ်ထပ်အုတ်တိုက်ကလေးတစ်ဆောင်ကို ချက်ချင်းပင်ဆောက်လုပ်ကာ

---

*၁ လယ်တီဆရာတော်ကြီး၏ သာသနဝိသောဓနီ၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၁)။

*၂ ယင်း။ (စာမျက်နှာ–၈)။

လှူဒါန်းခဲ့ကြပါသည်။[*၁] ထိုဇေတဝန်အုတ်တိုက်မှာပင် လယ်တီဆရာတော်ဘုရားကြီးသည် (၄၇)ကြိမ်မြောက်သတ္တစတ္တာလီသမဝါကိုကပ်ဆိုတော်မူခဲ့ပါသည်။

**ဇေတဝန်အုတ်တိုက်**[*၂]

လယ်တီဆရာတော်ဘုရားကြီးဝါကပ်တော်မူရာ ဇေတဝန်အုတ်တိုက်သည် စစ်ကိုင်းတောင်ရိုး ဇေတဝန်စေတီတော်ကြီး၏အရှေ့မြောက်အရပ်၌တည်ရှိပြီး၊ အနီး၌တည်ရှိသော ဇေတဝန်စေတီတော်ကြီးကိုပင် ဌာနူပစာပြု၍ 'ဇေတဝန်အုတ်တိုက်'ဟု ခေါ်ဝေါ်ခဲ့ခြင်းဖြစ်သည်။ စင်စစ်ဇေတဝန်စေတီတော်သည် စစ်ကိုင်းတောင်ရှိ ဘုရားစေတီများစွာရှိရာတွင် ဝါအကြီးဆုံး(တစ်နည်း) ရှေးအကျဆုံးဘုရားစေတီဖြစ်သည်။အကြောင်းမှာ မြတ်စွာဘုရားရှင်သည် ညီတော်အာနန္ဒာနှင့်အတူ စစ်ကိုင်းတောင်ရှိရာသို့ဒေသစာရီကြွချီတော်မူရာ၊ ဤအရပ်သို့ရောက်လျှင် ဇေတအမည်ရှိ ဘီလူးအမှူးပြုသော ကိုးကျိပ်ကိုးယောက်သောဘီလူးတို့ ဘုရားရှင်၏တရားကိုနာယူ၍ သောတာပန် တည်ခဲ့ကြသည်။ ထိုအရပ်၌ ဘုရားသခင်သည် ရေသပ္ပါယ်တော်မူ၍ ရေသနုပ်တော်ကို ဇေတဘီလူးအားချီးမြှောက်တော်မူရာ၊ ဇေတဘီလူးသည် ထိုရေသနုပ်တော်ကိုဌာပနာ၍ စေတီတည်လေသည်။ စေတီဒါယကာဇေတဘီလူးကို အစွဲပြု၍ ဇေတဝန်ဘုရားဟုတွင်သည်။[*၃] နောင်သက္ကရာဇ် ၉၁၆–ခုနှစ် (အေဒီ–၁၅၅၄)ခုနှစ် ဟံသာဝတီဆင်ဖြူရှင်လက်ထက် အရှင်တိသာသနဓဇကို ဤအရပ်၌ရွှေကျောင်းဆောက်လှူသော် ထိုကျောင်းကို ဇေတဝန်ကျောင်းဟုတွင်၍ သံဃာတော်အဆက်ဆက် သီတင်းသုံးတော်မူခဲ့ကြပါသည်။[*၄] သို့ဖြင့် မူလဇေတဝန်ဘုရားနှင့် ဇေတဝန်ကျောင်းတော်ကိုအမှီပြု၍ ဤအနီးဝန်းကျင်တွင် လယ်တီဆရာတော်ဘုရားကြီး သီတင်းသုံးရာ ဇေတဝန်အုတ်တိုက်အပါအဝင် အခြားဇေတဝန်ကျောင်းများလည်းဖြစ်ပေါ်လာပါသည်။[*၅]

---

*၁ ထိုအုတ်တိုက်ကို နောင်အခါ ပိဋကတ်စာပေများထားရှိ၍ 'ဇေတဝန်ပိဋကတ်တိုက်'၊ ဆရာတော်ဘုရားကြီးဆေးကုရာဌာနဖြစ်၍လည်း 'ဇေတဝန်ဆေးတိုက်'၊ ဇေတဝန်ဘုရား၏အောက်ခြေ၌ကည်ရှိ၍ 'ဇေတဝန်အောက်ဆေးတိုက်'–စသည်ဖြင့် အမျိုးမျိုးခေါ်တွင်ခဲ့ကြပါသည်။ ထိုအုတ်တိုက်၌ ကမ္ပည်းကျောက်စာသုံးချပ်မြှုပ်နှံထားရာ ပထမတစ်ချပ်တွင် '၁၂၇၄–ခုနှစ် (1913 AD) ကစ၍ ဇေတဝန်ပိဋကတ်တိုက်နှင့်ဆေးတိုက် ဦးဘေ–ဒေါ်ဖွားခင်ကောင်းမှု နတ်လူသာဓုခေါ်စေသော်'–ဟူ၍ မှတ်တမ်းတင်ထားပါသည်။ နောင်အခါ သက္ကရာဇ်–၁၂၈၂ (အေဒီ–၁၉၂၀)၌ ထိုကျောင်းဝ၌မြှုပ်နှံထားခဲ့သော '၁၂၈၂၊ ဇေတဝန်မဟာလယ်တီစံကျောင်း ရန်ကုန်မြို့ ကိုဘေ၊ မဖွားခင်ကောင်းမှု'ကမ္ပည်းစာပါ ကြေးပြားတစ်ချပ်ရှိသေးသည်။ ဤအချက်တို့ကို စစ်ကိုင်းမြို့ သုဗောဓာရုံတိုက် အရှင်နန္ဒမာလာဘိဝံသ (ယခု ဒေါက်တာအရှင်နန္ဒမာလာဘိဝံသ–ပါမောက္ခချုပ်ဆရာတော်ကြီး)ရှာဖွေတော်မူ၍ (၁၂၊ ၅၊ ၁၉၇၇)နေ့က စာဖြင့်အကြောင်းကြားခဲ့ခြင်းဖြစ်ပါသည်။ လယ်တီဆရာတော်ဘုရားကြီးသီတင်းသုံးရာ ဇေတဝန်ဆေးတိုက် အဆောက်အအုံကား ၁၉၉၇–ခုနှစ်က ပြိုပျက်နေ၍ဖျက်ခဲ့ကြပြီး၊ ထိုနေရာ၌ အုတ်တိုက်ငယ်အသစ်တစ်ဆောင် ဆောက်လုပ်ထားပါသည်။

*၂ ဤဇေတဝန်အုတ်တိုက်ကို သက္ကရာဇ်–၁၂၈၂(အေဒီ–၁၉၂၀)တွင် 'ဇေတဝန်မဟာလယ်တီစံကျောင်း'ဟု ကမ္ပည်းတင်ခဲ့သည်။ ဤလယ်တီစံကျောင်းတွင် ပထမလယ်တီဆရာတော်ဘုရားကြီး၊ ထို့နောက် မန္တလေးမြို့ချမ်းသာကြီးဆရာတော်(ခေတ္တ)၊ မန္တလေးမြို့ မစိုးရိမ်အဘိဓဇဆရာတော်ကြီး(ခေတ္တ)၊ သုမနာရာမချောင်မှ အရှင်ပညာသီရိ၊ ထို့နောက် ဦးသုန္ဒရ၊ ဦးဥတ္တမနှင့် ယခု ဦးဂုဏာစာရတို့ အစဉ်အဆက်သီတင်းသုံးခဲ့ကြသည်။

*၃ ရွှေပြည်ဦးဘတင်၏စစ်ကိုင်းတောင်သမိုင်း။ ရွှေမြို့တော်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ–၂၆၊ ၃၀)။

*၄ မဟာဓမ္မသင်္ကြံ၏ သာသနာလင်္ကာရစာတမ်း။ သာသနာရေးဝန်ကြီးဌာန၊ ရန်ကုန်မြို့။ ၂၀၀၀–ပြည့်နှစ်။ (စာမျက်နှာ–၁၈၂)။

*၅ ယခုအခါ၌ ပထမဇေတဝန်၊ ဇေတဝန်စိန္တာ၇မယ၊ ဇေတဝန်ဝါဆို၊ ဇေတဝန်ဗိမာန်၊ အလယ်ဇေတဝန်၊ အထက်ဇေတဝန်၊ ဇေတဝန်ဟံသာဂီရိ၊ ဇေတဝန်မဟာလယ်တီစံကျောင်း–စသည်တို့ဖြစ်သည်။



လယ်တီဆရာတော်ကြီး
စက္ခုဝေဒနာကုသရာ
စစ်ကိုင်းတောင်ရိုး
ရောဝတီကမ်းနဖူးရှိ
ဇေတဝန်အောက်ဆေးတိုက်
လယ်တီစံကျောင်း



ဆရာတော်ကြီး
ကိုယ်တော်စား
ဆေးလှူဒါန်းကြရာ
ဇေတဝန်အထက်ဆေးတိုက်



ဇေတဝန်အောက်ဆေးတိုက်၌ လယ်တီဆရာတော်ကြီး
ပဋ္ဌာန်းတရားဟောတော်မူသောပလ္လင်တော်



စစ်ကိုင်းမြို့စိတ္တသုခချောင်၌ လယ်တီဆရာတော်ကြီး
စာဝါပို့ချတော်မူသောနေရာ

ဇေတဝန်အုတ်တိုက်သည် ရေဝတီမြစ်အနောက်ဘက်ကမ်းစပ်၌တည်ရှိ၍ မြစ်ရေကြီးချိန်တွင် ကျောင်းမြေအတွင်းသို့ ရေများတက်လာလေ့ရှိသည်။ ထိုနေရာ၌ ကျောင်းမြေမှာ တစ်ကေခန့် မြေအကျယ်ရှိပြီး၊ ဆရာတော်ဘုရားကြီးသီတင်းသုံးတော်မူရန် အုတ်တိုက်ကျောင်းကို ကျောင်းမြေ၏ တောင်ဘက်အခြမ်း၌ အောက်ခြေက ကျောက်ထုပ်စသည်အခိုင်အခန့်ပြုလုပ်ပြီး ဆောက်ထားခြင်းဖြစ်သည်။ ကျောင်း၏မြောက်ဘက်၌ ကျောင်းဒကာဦးဘေနှင့် ကျောင်းအမဒေါ်ဖွားခင်တို့က ဆရာတော်ဘုရားကြီးအား အနီးကပ်နေထိုင်ပြီး ပြုစုလုပ်ကျွေးနိုင်ရန် ဇရပ်တိုက်ကျောင်းကလေး ဆောက်လုပ်ခဲ့သည်။ ပြီးလျှင် ဆရာတော်ဘုရားကြီးအားလည်း 'တပည့်တော်မတို့နေတဲ့အခြမ်းကို ဇရပ်ကျောင်းနေရာအဖြစ်သတ်မှတ်ပြီး ဆရာတော်ဘုရားကြီးသီတင်းသုံးရာ အုတ်တိုက်နေရာကိုသာ ကျောင်းအမှတ်အသိအမှတ်ပြု၍ အလှူခံသိမ်းပိုက်တော်မူပါဘုရား' ဟူ၍ လျှောက်ထားခဲ့ဖူးပါသည်။*[၁]

ထိုကျောင်းဒကာဦးဘေသည် အငြိမ်းစားရဲဝန်ထောက်ကြီး၊ ဇာတိမှာ အောက်အရပ်ဒေသမှ ဖြစ်ပြီး၊ ဒကာမဒေါ်ဖွားခင်မှာ စစ်ကိုင်းမြို့၊ တကောင်းရပ်သူဖြစ်သည်။ သားရင်းသမီးရင်း မရှိကြဘဲ ဦးဘေ ဝန်ထမ်းအဖြစ်မှပင်စင်ယူသော် စစ်ကိုင်းမြို့သို့ရွှေ့ပြောင်းလာခဲ့ကြပြီး ယခု လယ်တီဆရာတော်ဘုရားကြီး စစ်ကိုင်း၌ဝါကပ်မည့်သတင်းကြားရသည့်အခါ ဆရာတော်ဘုရားကြီးအား ကြည်ညိုလေးမြတ်ကြသည့်အားလျော်စွာ မိမိတို့စည်းစိမ်ဥစ္စာကိုပုံ၍ ဤအုတ်တိုက်ကျောင်းကိုဆောက်လုပ်ခြင်း၊ ဆရာတော်ဘုရားကြီး၏ထံပါး အနီးကပ်နေ၍ပြုစုလုပ်ကျွေးခြင်း၊ ဆရာတော်ဘုရားကြီးသီတင်းသုံးရာ ဇေတဝန်မဟာလယ်တီစံကျောင်းစသည်ပြုပြင်ရန်အတွက် မိမိတို့ပိုင်လယ်မြေကေတို့ကို ထောင်နှင့်ချီ၍လှူဒါန်းထားခဲ့ကြပါသည်။*[၂]

**ဆေးလှူကြခြင်း**

လယ်တီဆရာတော်ဘုရားကြီး၌ဖြစ်ပွားလျက်ရှိသော စက္ခုဝေဒနာပျောက်ကင်းစေရန်ရည်စူး၍ ဆရာတော်ဘုရားကြီးကိုယ်တော်စား ကုသိုလ်မှုများပြုကြရာဝယ် တိုက်ဒါယကာဦးဘေနှင့် ဇနီး ဒေါ်ဖွားခင်၊ မန္တလေးမြို့၊ ရတနာပုံစာအုပ်တိုက်ပိုင်ရှင် မင်းကြီးကတော်မမညွန့်–စသူတို့က ဆေးဝါးများကို ဥပုသ်နေ့တိုင်း တောင်ရိုးရှိရဟန်းရှင်လူတို့အားလှူဒါန်းခဲ့ကြပါသည်။ ထိုစဉ်က လှူသောဆေးတို့မှာ အခိုးပွင့်ဆေး၊ လျက်ဆားစသော ဗိန္ဓောဆေးများဖြစ်ပြီး တာဝန်ခံကာ ဆေးဝေငှလှူဒါန်းပေးရသူမှာ ဒါယကာကြီးဦးနွယ်*[၃] ဖြစ်သည်။*[၄]

---

*[၁] အောက်ဇေတဝန်ဆေးတိုက် လယ်တီမဟာစံကျောင်းဆရာတော်အရှင်ဂုဏာစာရ၏ (၁၁၊ ၈၊ ၂၀၀၇)နေ့ မိန့်ဆိုတော်မူချက်ဖြစ်ပါသည်။

*[၂] ဦးဘေ၊ ဒေါ်ဖွားခင်တို့က မိမိတို့ပိုင်လယ်မြေကေ ၃၅၄၈–ကေတို့ကို လယ်တီဆရာတော်ဘုရားကြီးအား ရေစက်ချလှူဒါန်းခဲ့ပါသည်။ အလှူမှတ်တမ်းကျောက်ချပ်လည်းရှိသည်။

*[၃] စစ်ကိုင်းတောင်ရိုး ခူဝံချောင်ဆရာတော်ကြီး၏ ခမည်းတော်ဖြစ်သည်။

*[၄] ဒေါက်တာအရှင်နန္ဒမာလာဘိဝံသ၏ စုံစမ်းတော်မူချက်မှဖြစ်ပါသည်။

စစ်ကိုင်းတောင်ရိုး၌နေသော မတ္တရာဝန်ကတော်သီလရှင်ဆရာကြီးသည် စစ်ကိုင်း ဇေတဝန် ဆေးတိုက်၌သီတင်းသုံးနေတော်မူသော ဆရာတော်ဘုရားကြီးအား လာရောက်ဖူးမြော်ကန်တော့ ရင်း ဆရာတော်ကြီးကိုယ်တော်စား ဆေးဝါးများကိုလှူဒါန်းပေးခဲ့သည်။ ပြီးလျှင် ဘုရားပုထိုးတို့၌ ဆီမီးပန်းမာလ်စသည်ကပ်လှူရုံမျှသာမက 'ဋီကာကျော်ဆရာစသည်ကိုပြစ်မှားမိ၍ စက္ခုတော် ထိခိုက်ရသည်' ဟူသောအထင်ဖြင့် နှုတ်ကလည်း 'ဆရာတော်ဘုရားကြီးကိုယ်တော်စား တောင်းပန်ပါသည်'–စသည်ဖြင့်မြွက်ဆိုခဲ့လေသည်။

ဤသို့ ဆရာတော်ဘုရားကြီးကိုယ်တော်စား တောင်းပန်ခဲ့ကြောင်းကို လယ်တီဆရာတော် ဘုရားကြီးအားပြန်လည်လျှောက်ထားသည့်အခါ ဆရာတော်ဘုရားကြီးက 'ဟုတ်မယ်မထင်ပါဘူး မတ္တရာရယ်'ဟု မိန့်ဆိုတော်မူပါသည်။*၁

**ဆရာတော်ဘုရားကြီးအားစောင့်ရှောက်ပြုစုကြခြင်း**

ဤသို့လျှင် ဆရာတော်ဘုရားကြီး၌ စက္ခုဝေဒနာဖြစ်ပွားနေတော်မူစဉ်အတွင်း တပည့် သံဃာများ၊ လှူဥပါသကာကြီးများ၊ သီလရှင်ဆရာကြီးများ–စသည်တပည့်အပေါင်းတို့က အထူး ကြပ်မ၍စောင့်ရှောက်ကြပါသည်။ ထိုစဉ်က သံဃာတော်များမှဦးပဒုမကိုယ်တော်သည် ဆရာတော် အနီး၌နေ၍ပြုစုပေးပြီး ဆေးဆရာကြီးများတွင် မန္တလေးမြို့မှသမားတော်ဦးကျော်ရန်၊ တောင်သာမှ ဆရာမှုံကြီး၊ စစ်ကိုင်းမှအာယုဗ္ဗေဒဆရာဘကြီးနှင့် အာယုဗ္ဗေဒဆရာကောင်းတို့က ဆေးဝါးကုသ ပေးကြပါသည်။

မြစ်သားမြို့နေ တပည့်ဒါယကာဦးစံဖေ*၂ ကမူ ဆရာတော်ဘုရားကြီး စစ်ကိုင်း၌ဝါကပ်ပြီ ဆိုသောသတင်းရလျှင်ကပင် စစ်ကိုင်းသို့ရောက်လာပြီး ဆရာတော်ဘုရားကြီးအား ဖခင်ကြီးသဖွယ် ပွေ့ပွေ့ပိုက်ပိုက်ပြုစုခဲ့ပါသည်။ ညနေခင်းရာသီဥတုကြည်လင်သည့်အခါ မြစ်ကမ်းစပ်၌ လမ်း လျှောက်တော်မူရန်စီစဉ်ပေးသည်။ ရံခါ မြစ်ကမ်းမနီးမဝေး မြစ်အတွင်းလှေဖြင့်တင်၍လည်း ပင့်ဆောင်တတ်လေသည်။ ထို့ပြင် ဒါယကာဦးစံဖေသည် ဆရာတော်ဘုရားကြီးအား စက္ခု ဝေဒနာ၌စိတ်မသက်ရောက်စေဘဲ အာရုံအပြောင်းအလဲဖြစ်စေရန်အတွက် ရန်ကုန်မြို့ လမ်းမတော် ရပ်ကထုတ်လုပ်သော မတာပိုဆေးလိပ်ကိုဆက်ကပ်ခြင်း၊ နေ့ဆွမ်းဘုဉ်းအပြီး တရုတ်ဆီးသီး စသည်မြုံနေရန်ကပ်ခြင်း စသည်ပြုလုပ်ပေးခဲ့ပါသည်။*၃

---

*၁ မန္တလေးမြို့ နယူးစီဘီလိုင်း ဝိဇိတာရုံဆရာတော်ကြီး၏ (၂၇၊ ၄၊ ၁၉၇၆)နေ့မိန့်ဆိုတော်မူချက်ဖြစ်ပါသည်။

*၂ နောင်အခါ မင်းတိုင်ပင်အမတ် မြစ်သားဦးစံဖေဟု ထင်ရှားခဲ့ပါသည်။ ၁၈၇၅–ခုနှစ်၊ ဒီဇင်ဘာလ(၂၇)တွင် ပဲခူးတိုင်း၊ ညောင်လေးပင်မြို့နယ်၊ ပုဇွန်မြောင်းရွာ၌ဖွားမြင်သည်။ မြစ်သားမြို့၌ အမိန့်တော်ရရှေ့နေ ဆန်စက်ပိုင်ဖြစ်သည်။ Who's Who in Burma. 1927. Page-180.

*၃ ဦးစံဖေ၏သမီး (ဆရာကြီးဒဂုန်ဦးလှဘေ၏ဇနီး) ရန်ကုန်မြို့၊ ရေကျော်ရပ်နေ ဒေါ်ဒေါ်တုတ်၏ (၄၊ ၁၊ ၁၉၈၄)နေ့ ပြောပြချက်များဖြစ်ပါသည်။ ဒေါ်ဒေါ်တုတ်သည် လယ်တီဆရာတော်ဘုရားကြီးကို ကောင်းစွာသိမီလိုက်သော သံခိပ်အသင်း သူ တစ်ဦးဖြစ်ပါသည်။

စင်စစ် ဆရာတော်ဘုရားကြီးသည် မိမိထံဆက်ကပ်လာသောစာလွှာများကို ကိုယ်တိုင်ဖတ်ရှုပြီး ပြန်ကြားသင့်သောအမေးပုစ္ဆာတို့ကို ကိုယ်တိုင်ဖြေဆိုရေးသားလိုသောဆန္ဒသည်သာ ကြီးမားတော်မူလျက်ရှိပါသည်။ စက္ခုဝေဒနာစွဲကပ်သည့်အချိန်မှစ၍ စာကိုကောင်းစွာမမြင်ရသဖြင့် ရောက်ရှိလာသောစာလွှာတို့ကို ကိုယ်တိုင်မဖတ်နိုင်ဘဲ တပည့်တစ်ဦးဦး၊ များသောအားဖြင့် ဦးပဒုမကဖတ်ပြရပြီး၊ ထိုအမေးပုစ္ဆာ၏အဖြေလွှာတို့ကိုလည်း ကိုယ်တော်တိုင်မရေးသားနိုင်၊ အဆင်မပြေသည့်အတွက် နှုတ်တော်ကမိန့်ကြားပေး၍ ဦးပဒုမကပင်ရေးသားရပြန်ပါသည်။ ဤသို့ စာကိုတစ်ဆင့်ဖတ်ရ, တစ်ဆင့်ရေးရပြုနေရသည်ကို ဆရာတော်ဘုရားကြီးက အားမလို အားမရဖြစ်တော်မူခြင်းမျှသာရှိပါသည်။

ဤစက္ခုဝေဒနာပေါ်၍သည်းခံနိုင်ပုံနှင့်စပ်၍ တစ်ခါသော် သမားတော်ဦးကျော်ရန်က– 'ဆရာတော်ဘုရားကြီး၏စက္ခုဝေဒနာတော် မကြာမီပျောက်ပါလိမ့်မည်ဘုရား၊ ခေတ္တသည်းခံတော်မူပါဘုရား' ဟုလျှောက်ထားရာ၊ ဆရာတော်ဘုရားကြီးက–

'မောင်ကျော်ရန်ရဲ့၊ ငါ့မှာ စက္ခုအလင်းမရတော့ အာရုံမပြားဘူးကွယ့်၊ နို့မဟုတ်ရင် စက္ခုအာရုံကိုထိန်းနေရသေးတယ်၊ ခုတော့ ငါ့ခန္ဓာကိုယ်ကို တစ်ဘဝတည်းနဲ့ ထိန်းတာပေါ့၊ ငါ့မျက်စိပြန်မြင်ဖို့ သိပ်အာရုံမစိုက်ကြပါနဲ့ကွယ်တို့'

ဟူ၍ မိန့်ကြားတော်မူကြောင်းသိရပါသည်။ *၁

**တရားဓမ္မဟောပြ, စာဝါစသည်ပို့ချတော်မူခြင်း**

လယ်တီဆရာတော်ဘုရားကြီးသည် ဇေတဝန်ချောင်၌သီတင်းသုံးနေတော်မူစဉ်ကာလအတွင်း နေ့ဆွမ်းစားပြီးချိန်တွင် ဇေတဝန်ချောင်အနီးရှိ စိတ္တသုခချောင် *၂ သို့ကြွကာ ပရမတ္ထဒီပနီစာဝါကို ပို့ချပေးတော်မူပါသည်။ ထိုစဉ်က တောင်ရိုးရှိသံဃာများစွာတို့ ထိုစာဝါကိုလိုက်ခဲ့ကြပါသည်။ *၃ တောင်ရိုးရှိသူတော်စင်တို့တောင်းပန်ချက်အရ နေ့စဉ်တရားပွဲများကိုလည်းကျင်းပပြုလုပ်ခဲ့ပါသည်။ ရံခါ ဇေတဝန်အောက်ဆေးတိုက်အတွင်းမှနေ၍ အဘိဓမ္မာပဋ္ဌာန်းတရားကြီးကိုလည်း ရက်ဆက်ဟောကြားပေးတော်မူပါသည်။ *၄

---

*၁ လယ်တီဦးလှပိုင်၏ (၂၆၊ ၄၊ ၁၉၇၆)နေ့ ပြောပြချက်ဖြစ်သည်။

*၂ စိတ္တသုခချောင်သည် ဇေတဝန်မဟာလယ်တီစံကျောင်းအထက်၌တည်ရှိသည်။ ယခု ဤချောင်၌ သာသနာ့အနွယ်ဝင် သီလရှင်ဆရာများနေထိုင်လျက်ရှိသည်။

*၃ ထိုစဉ်က စာလိုက်သံဃာများတွင် မန္တလေးမြို့ အဂ္ဂမဟာပဏ္ဍိတ ဝိဇိတာရုံဆရာတော်ကြီးနှင့် မုံရွာမြို့ အဂ္ဂမဟာပဏ္ဍိတ ဓမ္မပါရဂူ ပေပင်ဆရာတော်ကြီးတို့ပါဝင်ကြပါသည်။ လယ်တီဆရာသိန်း၏သား ဦးတင်ဦး၏ (၂၆၊ ၁၀၊ ၁၉၉၇)နေ့ပြောပြချက်ဖြစ်သည်။

*၄ ဆရာတော်ဘုရားကြီးပဋ္ဌာန်းတရားဟောလျှင် သီတင်းသုံးတော်မူသည့် ရတနဃရ–ဟုခေါ်တွင်ခဲ့သော တရားဟောသစ်သားပလ္လင်ကြီးတစ်လုံးရှိခဲ့ဖူးပါသည်။

တစ်ခါသော် ဆရာတော်ဘုရားကြီးစိတ္တသုခချောင်၌စာဝါပို့ချနေစဉ် ဝိုင်–အမ်–ဘီ–အေ အသင်းခေါင်းဆောင်များ မန္တလေးဘက်မှစစ်ကိုင်းဘက်ကူး၍ ဆရာတော်ဘုရားကြီး၏ခြေတော်ရင်းသို့ဦးခိုက်လာကြသည်။ ဆရာတော်ဘုရားကြီး စာချချိန်ကြုံနေ၍ လူကြီးများခေတ္တစောင့်နေကြရသည်ကို ကပ္ပိယဒါယကာကြီးအချို့က ဧည့်ဝတ်မကျေဖြစ်မည်စိုး၍ အားနာလှသဖြင့် ဆရာတော်ဘုရားကြီးထံတော်ပါးချဉ်းကပ်ကာ 'ဆရာတော်ကြီးဘုရား၊ ...မည်သူမည်ဝါတို့ ရောက်ရှိနေကြကြောင်းပါဘုရား' စသည်ဖြင့်လျှောက်ထားခဲ့သည်။ ထိုအခါ ဆရာတော်ဘုရားကြီးသည် စာချနေဆဲအခါဖြစ်၍ တင်းမာသောမျက်နှာထားတော်ဖြင့် 'ဟဲ့–မောင်ကျော်ရန်တို့ မောင်မြတို့ဟာ ငါတို့စာချနေတာမသိကြဘူးလား၊ တော်ရာသွားနေကြစမ်း'ဟု အသံတော်ခပ်မာမာ ခပ်တင်းတင်း မိန့်ဆိုတော်မူလိုက်ပါသည်။ ထိုအခါ ဧည့်သည်များကိုအားနာလှ၍လျှောက်ထားခဲ့သောကပ္ပိယဒါယကာကြီးမှာ ဆက်မလျှောက်ဝံ့တော့ဘဲ ဆတ်ဆတ်တုန်မျှ အလွန်ကြောက်ရွံ့သွားပြီး၊ ဘေးနားရှိဒါယကာကြီးအချို့မှာလည်း ကြောက်ရွံ့တုန်လှုပ်ကာ အခြားဇရပ်သို့ရွှေ့ပြောင်းသွားကြလေသည်။

## ကတိုးကော့နပ် ပိဋကတ်မြန်မာပြန်ရုံးသို့

လယ်တီဆရာတော်ဘုရားကြီးသည် စက္ခုတော်ဝေဒနာဖြစ်နေစဉ်ကာလအတွင်း မပျောက်မပျက် ကြံစည်လျက်ရှိသောစိတ်ကူးတစ်ခုမှာ မြန်မာလူမျိုးများအတွက် ပိဋကတ်တော်မြန်မာပြန်များပေါ်ထွက်ဖို့အရေးပင်ဖြစ်သည်။ ဤသို့ ဆရာတော်ဘုရားကြီး ပိဋကတ်မြန်မာပြန်ကိစ္စပေါ်ထွန်းရေးအတွက် စိတ်ကူးကြံဆနေတော်မူစဉ် တပည့်ဖြစ်သူ ဆရာဦးမြို့ထံမှ 'ပိဋကတ်မြန်မာကိစ္စ ထ,မြောက်ပါပြီ၊ ဤလုပ်ငန်းအတော်ခရီးပေါက်နေပါပြီ' စသည့်သတင်းများရောက်ရှိလာလေသည်။

ဆရာမြို့သည် ပိဋကတ်မြန်မာပြန်ကျမ်းစာများပေါ်ထွက်ရေးကို ရဟန်းထွက်စအခါကပင် ငွေကြေးအစရှိသော ပစ္စယာနုဂ္ဂဟထောက်ပံ့ကူညီမည့်ပုဂ္ဂိုလ်ကိုရှာဖွေနေရာ ကတိုးကော့နပ်ရွာသားစီးပွားရေးလုပ်ငန်းရှင်ဦးရွှေလေး*၁ နှင့်တွေ့ဆုံမိခဲ့သည်။ ဆရာမြို့က ဦးရွှေလေးအား မိမိ၏အကြံအစည်ကိုပြောပြလျှင် ဦးရွှေလေးကလည်း မိမိသည် မကြာမီကပင် ဂျပန်, တရုတ်, မလေးရှား, အင်္ဂလန်,အမေရိကန်–စသောနိုင်ငံများသို့လှည့်လည်ပြီးပြန်လာခဲ့ရာ ထိုနိုင်ငံများတွင် မိမိတို့ဆိုင်ရာဘာသာအသီးသီးဖြင့် ပိဋကတ်တော်များကို ဘာသာပြန်ဆိုကြကြောင်း၊ မိမိတို့နိုင်ငံမှာလည်း ပိဋကတ်တော်များကို မြန်မာပြန်ထားရန်သင့်ကြောင်း စသည်ဖြင့်ပြောပြသည်။ ထို့ကြောင့် ဆရာမြို့ကသာ တာဝန်ခံ၍ ပိဋကတ်တော်များကို မြန်မာဘာသာသို့ပြန်ဆိုပေးလျှင် ထိုလုပ်ငန်းအတွက် လိုအပ်သောစရိတ်စကအဝဝကို မိမိကတာဝန်ခံပါကြောင်း ဝန်ခံစကားပြောကြားသည်။

---

*၁ ဦးရွှေလေး(အေဒီ ၁၈၆၇–၁၉၃၁)သည် မော်လမြိုင်မြို့ ကတိုးကော့နပ်ရွာဇာတိဖြစ်ပြီး ဖခင်မှာ သူဌေးကြီးဦးထွန်းကျော်ဖြစ်သည်။ ငယ်စဉ်ကပင် အင်္ဂလန်နိုင်ငံ လန်ဒန်မြို့၌ပညာသင်ယူခဲ့ရပြီး၊ ရာဘာလုပ်ငန်းရှင်သူဌေးကြီးတစ်ဦးဖြစ်သည်။ မြန်မာ့စွယ်စုံ၊ အတွဲ–၁၁။ ၁၉၇၀–ပြည့်နှစ်။ (စာမျက်နှာ ၄၆၃၊ ၄၆၅)။

ဤသို့ဖြင့် ဦးရွှေလေး၊ မြန်မာ့အလင်းဦးရွှေကြူး၊[*၁] နှင့် ဆရာမြို့တို့သုံးဦးပေါင်း၍ မြန်မာပိဋကတ်ကုမ္ပဏီကိုတည်ထောင်ခဲ့ပါသည်။ ထိုကုမ္ပဏီကို အမှတ်(၂၆၃)၊ လွှစ္စလမ်း(ယခု–ဆိပ်ကမ်းသာလမ်း)၊ ရန်ကုန်မြို့တွင်တည်ထားခဲ့သည်။ ပိဋကတ်သုံးပုံပြန်ဆိုရာဌာနကိုကား ဦးရွှေလေး၏ဇာတိဖြစ်သော ကတိုးကော့နှပ်ရွာ၌ထားရှိသည်။ ဆရာမြို့သည် လယ်တီပဏ္ဍိတဦးမောင်ကြီးကို တစ်နှစ်ခန့် ကော့နှပ်ရွာသို့အကူခေါ်ယူထားကာ ဘာသာပြန်လုပ်ငန်းကိုစတင်ခဲ့ကြသည်။[*၂]

ဤသို့ ပိဋကတ်မြန်မာပြန်လုပ်ငန်း စတင်နိုင်သည်နှင့် ဆရာမြို့သည် မိမိ၏ဆရာရင်း လယ်တီဆရာတော်ဘုရားကြီးထံတော်သို့ ကတိုးကော့နှပ်သို့ကြွတော်မူပါမည့်အကြောင်းနှင့် မိမိတို့၏ပိဋကတ်မြန်မာပြန်လုပ်ငန်းကိုကြည့်ရှုပြီး လိုအပ်သမျှအမိန့်ရှိတော်မူပါမည့်အကြောင်းတို့ကို ပင့်လျှောက်စာပို့လေသည်။ ဆရာတော်ဘုရားကြီးမှာ တပည့်ရင်းများလုပ်ဆောင်သောလုပ်ငန်းဖြစ်သည်ကတစ်ကြောင်း၊ ဤလုပ်ငန်းကို မိမိကိုယ်တော်တိုင်ကလည်း အလွန်လိုလားတော်မူသည်ကတစ်ကြောင်းတို့ကြောင့် 'ယခုဝါကျွတ်လျှင် ငါတို့လာခဲ့မည်'ဟု ဆရာမြို့ထံ အကြောင်းကြားစာပေးပို့၍ ကတိထားတော်မူခဲ့ပါသည်။

လယ်တီဆရာတော်ဘုရားကြီးသည် ဝါကျွတ်လျှင်ပင် စစ်ကိုင်းမှရန်ကုန်သို့ ကြွတော်မူခဲ့ပြီးလျှင် ရန်ကုန်မြို့မှနောက်ပါသံဃာအခြံအရံတို့ဖြင့် မော်လမြိုင်မြို့သို့ ဂျားဗား(Java)အမည်ရှိသောသင်္ဘောကြီးဖြင့်ကြွတော်မူပါသည်။ ဆရာတော်ဘုရားကြီး မော်လမြိုင်မြို့ဆိပ်ကမ်းသို့ရောက်လျှင်ပင် သူဌေးဦးရွှေကြူး၊ ဦးရွှေလေးတို့ဦးဆောင်၍ မြို့သူမြို့သားအများ ကမ်းလုံးညွှတ်မျှကြိုဆိုကြသည်။ ပြီးလျှင် မရမ်းကုန်းရပ်ရှိ ပြည်ကျောင်းတိုက်သို့ ခေတ္တသီတင်းသုံးရန်ပင့်ဆောင်ခဲ့ကြသည်။

ပြည်ကျောင်းတိုက်ကြီးသည် မော်လမြိုင်မြို့ မရမ်းကုန်းရပ် ကျိုက်သုတ်စေတီတော်အနီး၌တည်ရှိပြီး ဝန်းကျင်၌လူနေအိမ်များရှိသော်လည်း ခြံကြီးဝင်းကြီးနှင့် နေထိုင်ကြသူများဖြစ်၍ ဆိတ်ငြိမ်လှပေသည်။ ကျောင်းဝင်းမှာကျယ်ပြန့်သန့်ရှင်းပြီး အုတ်မဟာရံတံတိုင်းကြီးကာရံထားသည်။ ကျောင်းကြီးမှာလည်း အလွန်ခမ်းနားထည်ဝါလှသော အုတ်တိုက်ကြီးဖြစ်သည်။ အုတ်လေ့ကားနှစ်စင်းတပ်၍ ဗျက် ၁၀–လက်မခန့်ရှိ ကျွန်းပြားကြီးများခင်းထားသည်။ ကျောင်းကြီးကကြီးကျယ်သော်လည်း ကျောင်းသံဃာမှာများများမရှိပေ။[*၃]

---

[*၁] ဦးရွှေကြူး(အေဒီ ၁၈၈၃–၁၉၃၆)သည် မော်လမြိုင်မြို့ဇာတိဖြစ်သည်။နောင်အခါ ဒေါင်းတံဆိပ်မြန်မာဖတ်စာသစ်၊ အင်္ဂလိပ်–မြန်မာအသုံးထွက်အဘိဓာန် စသည်တို့ကိုပြုစုခဲ့သူဖြစ်သည်။ ရန်ကုန်မြို့၌ ရွှေကျူးကုမ္ပဏီတည်ထောင်၍ စက်ရက်ကန်း၊ မြေသြဇာလုပ်ငန်းစသည်တို့ကိုလည်း လုပ်ကိုင်ခဲ့သည်။ အေဒီ ၁၉၁၂–ခုနှစ်တွင် ရွှေကျူးပုံနှိပ်တိုက်ကိုတည်ထောင်၍ ၁၉၁၂–ခုနှစ် ဇွန်လတွင် မြန်မာ့အလင်းမဂ္ဂဇင်းကိုထုတ်ဝေခဲ့ပါသည်။ ထို့နောက် ၁၉၁၅–ခုနှစ်တွင် မြန်မာ့အလင်းရက်ခြားသတင်းစာကိုလည်းထုတ်ဝေခဲ့သည်။ မြန်မာ့စွယ်စုံ၊ အတွဲ–၁၁။ ၁၉၇၀–ပြည့်နှစ်။ (စာမျက်နှာ ၄၁၅–၄၁၆)။

[*၂] မောင်ဖေငြိမ်း၏ မြန်မာလူကျော်–၁၀၀၊ ပထမတွဲ။ နှစ်ချို့ပိုင်စာအုပ်တိုက်၊ ရန်ကုန်မြို့။ ၂၀၀၂–ခုနှစ်။ (စာမျက်နှာ ၁၆၇–၁၇၀)။

[*၃] အရှင်နန္ဒမာလာဘိဝံသ၏ ရွှေဟင်္သာဆရာတော်ဘဝနှင့်စာပေအထွေထွေ။ စာပေပေါင်းကူးပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၈၀–ပြည့်နှစ်။ (စာမျက်နှာ–၅၉)။

လယ်တီဆရာတော်ဘုရားကြီးသည် ပြည်ကျောင်း၌ ခေတ္တသီတင်းသုံးနေတော်မူစဉ် ရွှေတောင်တန်းဓမ္မာရုံ၌ တရားပွဲတစ်ကြိမ်ကျင်းပပြုလုပ်ခဲ့ပါသည်။ ထိုတရားပွဲတွင် ကျွဲသား၊နွားသား မစားကြရန်ကိုလည်းမိန့်ကြားတော်မူသဖြင့် တရားနာပရိသတ်အများအပြားပင် ကျွဲသား၊နွားသား မစားကြောင်း ကတိပြုလျှူကြပါသည်။ တရားနာပရိသတ်တို့အား အန္တရာယ်ကင်းတံဆိပ်ပါ အဆောင်များကိုဝေငှကမ်းလှမ်းစေသည်။ ပရမတ္ထသံခိပ်အသင်းသူကုမ္ပာရီများကလည်း သံခိပ် ရွတ်ဆို၍ ဆရာတော်ဘုရားကြီးအားပူဇော်ကြပါသေးသည်။

နောက်တစ်နေ့တွင် လယ်တီဆရာတော်ဘုရားကြီးသည် ကတိုးကော့နုပ်ရွာသား သူဌေး ကြီးဦးနာအောက်ပိုင်ဆိုင်သော အောင်ဇေယျအမည်ရှိ နှစ်ထပ်သင်္ဘောကြီးဖြင့် ကတိုးကော့နုပ် ရွာသို့ ကြွတော်မူပါသည်။ ထိုသင်္ဘောတွင် သံဃာတော်များ၊ သီလရှင်များ၊ ဒါယကာ၊ဒါယိကာမ များလည်း လိုက်ပါလာကြပါသည်။*၁ သင်္ဘောပေါ်တွင်ပင် ဆရာတော်ဘုရားကြီးအား နေ့ဆွမ်း ဆက်ကပ်ကြပါသည်။ ကတိုးကော့နုပ်ရွာသို့သင်္ဘောဆိုက်လျှင် ဆရာတော်ဘုရားကြီးအား ကတိုး ကော့နုပ်ဆိပ်ကမ်းအနီး၌ရှိသော ဦးရွှေလေး၏အိမ်သို့ ပင့်ဆောင်သွားကြပါသည်။*၂

ဆရာတော်ဘုရားကြီးသည် ကတိုးကော့နုပ်ရွာရှိ ဒါယကာ၊ဒါယိကာမတို့အား သီလ စသည်ချီးမြှင့်၍ တရားဘာဝနာအားထုတ်ပုံအကျဉ်းမျှဟောပြောပေးပြီး ဘုရားများလှည့်လည် ဖူးမြော်တော်မူပါသည်။ ပြီးလျှင် ဆရာမြို့၏ ပိဋကတ်သုံးပုံမြန်မာပြန်ဌာနသို့ ကြွရောက်တော် မူပါသည်။ ဆရာမြို့တို့ဌာနသို့ရောက်လျှင် ပြန်ဆိုထားပုံများကိုအဖတ်ခိုင်းပြီး နာယူတော်မူပါသည်။ မှာသင့်သည်များကိုလည်း မိန့်မှာတော်မူပါသည်။ ပြီးလျှင် အောက်ပါစာလွှာတစ်စောင်ကို နှုတ်တော်ကမိန့်ဆိုတော်မူပါသဖြင့် ဆရာမြို့ကပင်လိုက်၍ရေးရပါသည်။ ဆရာတော်ဘုရားကြီး၏ ဤစာလွှာကို နောင်ပိဋကတ်မြန်မာပြန်စာအုပ်များရိုက်နှိပ်လျှင် ထည့်သွင်းမည့်အကြောင်း ဆရာမြို့ကလျှောက်ထားခဲ့သည်။ လယ်တီဆရာတော်ဘုရားကြီးချီးမြှင့်တော်မူခဲ့သောစာလွှာမှာ အောက်ပါအတိုင်းဖြစ်သည်။

### ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ အမိန့်မှတ်ချက်

> ဆရာတော်သည် ကတိုးရွာ မောင်ရွှေလေး၏ပင့်လျှောက်ချက်အရ ကတိုး ရွာသို့ရောက်၍ မောင်ရွှေလေး၏ကောင်းမှုကုသိုလ်ဖြစ်သော တပည့်ဆရာမြို့ အကြီးအမှူးပြုလုပ် ပြန်ဆိုရေးသားသည့် မြန်မာဘာသာစကားပြေ ပြန်ဆိုရေးသား ထားသော ပိဋကတ်ကျမ်းစာများကို ကြည့်ရှုရပေသည်။

---

*၁ အရှင်နန္ဒမာလာဘိဝံသ၏ ရွှေဟင်္သာဆရာတော်ဘဝနှင့်စာပေအထွေထွေ။ စာပေပေါင်းကူးပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၈၀-ပြည့်နှစ်။ (စာမျက်နှာ-၆၀)။

*၂ လယ်တီဆရာတော်ဘုရားကြီး ကတိုးကော့နုပ်ကြွတော်မူစဉ်က ရွှေကျင်သာသနာပိုင် စစ်ကိုင်းမြို့ ရွှေဟင်္သာတိုက်သစ် ဆရာတော်ကြီးအရှင်ပဏ္ဍိတလောင်းလျာသည် မော်လမြိုင်မြို့ ပြည်ကျောင်းတွင် ကိုရင်အဖြစ် သီတင်းသုံးနေဆဲဖြစ်၍ လယ်တီဆရာတော်ဘုရားကြီးနှင့်အတူ ကတိုးကော့နုပ်သို့လိုက်ပါတော်မူခဲ့ရပုံကြောင်းတို့ကို (၁၀၊၂၊၁၉၇၂) နေ့တွင် အမိန့်ရှိတော်မူပါသည်။





မြန်မာဘာသာ

သုတ္တန္တပိဋကတ်။

( ၁ )

ဒီဃနိကာယ်။

# သီလက္ခန်ပါဠိတော်။

ALL RIGHTS RESERVED.

မွန်ပြည်နယ်၊ကတိုးကျော့နပ်ရွာရှိ မြန်မာပိဋကတ်ပြန်ရာဌာနနှင့်သီလက္ခန်ပါဠိတော်မြန်မာပြန်စာအုပ်



သူဌေးကြီးဦးရွှေလေး



ဆရာကြီးဦးမြို့

ဆရာတော်ညွှန်ပြနည်းပေးသောအတိုင်း ပါဠိတော်ကြီးများကို ရှေးဆရာတို့၏ နိဿယများ၊ အဖွင့်အဋ္ဌကထာကြီး၊ ဋီကာကြီးများနှင့်အညီ သန့်ရှင်းကြည်လင်စွာ ပြန်ဆိုရေးသားထားသည်ကိုတွေ့ရ၍ ဆရာတော်က သာဓုခေါ်ပါ၏။

ဆရာတော်သည် ပျဉ်းမနားမြို့တွင် ဝါကပ်နေစဉ်အခါ ပိဋကတ်ပါဠိတော်ကြီးများကို မြန်မာဘာသာစကားပြေ ပြန်ဆိုရေးသားရန် အကြံအစည်ဖြစ်ပေါ်ဖူး၏။ တိုင်းပြည်ကိုလှည့်လည်၍ တရားဟောခြင်းကိစ္စကြီးကို အဆက်မပြတ်ဆောင်ရွက်နေရသောကြောင့် ထိုကြံစည်သောအတိုင်း ရေးသားရန် အခွင့်မသာရှိခဲ့ရာတွင် မောင်ရွှေလေးက ကြံကောင်းစည်ရ ပြန်ဆိုရေးသားပေးသည့်အတွက် ဆရာတော် အလွန်နှစ်သက်ဝမ်းမြောက်ရလေသည်။

မောင်ရွှေလေး၏ မြန်မာပိဋကတ်တော်များသည် အစုံအလင် ပြန်ဆိုပြီးစီးပါက ပါဠိဘာသာကို သင်ကြားခွင့်မရကြကုန်သော ရဟန်းရှင်လူတို့အဖို့ အလွန်လျော်ကန်သင့်မြတ်ပေသောကြောင့် သာသနာတော်အနှံ့အပြား ထွန်းကားပေလိမ့်မည်ဟု ဆရာတော်ယုံကြည်မျှော်လင့်ကြောင်း။ ။

လယ်တီဆရာတော်။ (ပုံ)

၁၂၇၄–ခု၊ တန်ဆောင်မုန်းလဆန်း(၁၄)ရက်။*၁

–ဟူ၍ဖြစ်သည်။*၂

**ဦးဝဏ္ဏိတ*၃ ရောက်ရှိခြင်း**

လယ်တီဆရာတော်ဘုရားကြီးသည် မုံရွာမြို့သို့ကြွတော်မူ၍ လယ်တီတောရကျောင်းတိုက် စကြံ့ကျောင်း၌ သီတင်းသုံးတော်မူခဲ့ပါသည်။ ဤအချိန်တွင် လယ်တီပဏ္ဍိတဦးမောင်ကြီး၏ဦးကြီး ဦးဖြိုးသည် လယ်တီပဏ္ဍိတ၏ညီဝမ်းကွဲ ရဟန်းတစ်ပါးရ အရှင်ဝဏ္ဏိတကို ဆရာတော်ဘုရားကြီး ထံတော်သို့ခေါ်ဆောင်ခဲ့ပြီး ထံတော်ပါး၌ပညာဆည်းပူးနေရန်အပ်နှံခဲ့သည်။*၄

အရှင်ဝဏ္ဏိတသည် မုံရွေးရွာ ရတနာမာန်အောင်တိုက်ဆရာတော်ဦးဥတ္တမထံတွင် သာမဏေ၊ ဓနုဖြူမြို့၊ ညောင်ချောင်းရွာ သရက်တောကျောင်းဆရာတော်ထံ၌ရဟန်းစသည်ပြုခဲ့ပြီးနောက်*၅ လယ်တီဆရာတော်ဘုရားကြီး၏ခြေတော်ရင်းသို့ဆိုက်ရောက်လာခဲ့ခြင်းဖြစ်သည်။

---

*၁ အေဒီ–၂၂၊ နိုဝင်ဘာလ၊ ၁၉၁၂–ခုနှစ်ဖြစ်သည်။

*၂ ပိဋကတ်သုံးပုံသတင်းစာ၊ အတွဲ–၁၊ အမှတ်–၅။ ၁၉၂၇–ခုနှစ်။ ဒီဇင်ဘာလ။ (စာမျက်နှာ–၈)။ ဆရာမြို့၏ ပိဋကတ်သုံးပုံ မြန်မာပြန်စာအုပ်များသည် အေဒီ ၁၉၂၈–ခုနှစ်တွင် ဝေလမင်းသားဆု(ငွေတစ်ထောင်)ရရှိသည်။ ဒဂုန်ရွှေမျှား၏ မြန်မာနိုင်ငံစာပေဆုများ၊ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၁၉၇၂–ခုနှစ်။ (စာမျက်နှာ–၁၁)။

*၃ ဦးဝဏ္ဏိတသည် သက္ကရာဇ်–၁၂၅၄(အေဒီ–၁၈၉၂)ခုနှစ်တွင်ဖွားမြင်၍၊ ၁၂၇၃(အေဒီ–၁၉၁၁)ခုနှစ်တွင် ရဟန်းဘောင်သို့ ရောက်သည်။ နောင်အခါ သထုံမြို့၊ မင်းတန်းလမ်း၊ သဇင်နီဆေးတိုက်ပိုင်ရှင်၊ မြန်မာနိုင်ငံတော်အစိုးရ ပထမပြန်အဖွဲ့ဝင် လူကြီး၊ လယ်တီမဟာထေရုပ္ပတ္တိကထာကျမ်းပြု သာသနဟိတဓရပရိယတ္တိဆေကအာစရိယတံဆိပ်ရဆရာကြီးဦးလှတင် အဖြစ် ထင်ရှားကျော်ကြားခဲ့ပါသည်။

*၄ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၄၅၆)။

*၅ ထိုအရှင်ဝဏ္ဏိတသည် ဓနုဖြူ ညောင်ချောင်းအရပ်၌နေစဉ်ကပင် တရားအဟောကောင်း၍ ဒုတိယဖိုးစိန်–ဟူ၍ နာမည်ကျော်ခဲ့ဖူးသည်။ ရွှေမုံတင်၏ လယ်တီနေမင်းကျမ်း။ ၁၉၇၃–ခုနှစ်။ (စာမျက်နှာ–၃၅)။

လယ်တီဆရာတော်ဘုရားကြီးသည် အရှင်ဝဏ္ဏိတအား ကျောင်းဘုန်းကြီးတစ်ပါးကိုခေါ်ပြီး အပ်နှံလိုက်၏။ အရှင်ဝဏ္ဏိတသည် လယ်တီတိုက်အတွင်း ညဘက်လူသံတိတ်ခိုက် စာများကို လေ့ကျက်နေရာမှ တစ်ညတွင် လယ်ပေါ်ကျောင်းကြီးအပေါ်ထပ်တက်၍ စာကျက်ချင်သော ဆန္ဒဖြစ်လာသဖြင့် လယ်ပေါ်ကျောင်းအပေါ်ထပ်သို့တက်၍ တံခွန်တိုင်နားမှနေ၍ မိမိအသံရှည် သမျှလွှတ်ကာ အားပါးတရရွတ်ဆိုအော်ဟစ်ကျက်မှတ်ခဲ့လေသည်။*[၁]

ထိုအချိန်တွင် လယ်တီဆရာတော်ဘုရားကြီးမှာ စကြံကျောင်းအတွင်း၌စကြံကြွတော်မူလျက် ရှိသည်။ အရှင်ဝဏ္ဏိတ၏စူးရှမြည်လှသောစာရွတ်သံကို ဆရာတော်ဘုရားကြီးကြားတော်မူသော အခါ– လယ်တီတိုက်အတွင်း၌ တရားဟောကထိကများစွာရှိကြသော်လည်း ထိုသို့သော အသံပိုင်ရှင်မျိုးကား မရှိသေး၊ ပရိသတ်ထောင်သောင်းကြားသိအောင် အသံကုန်လွှတ်ထုတ် ဟောရသောခေတ်အခါဖြစ်၍ ဤအသံရှင်ကို တရားအဟောခိုင်းရသော်သင့်မည်ဟု ဆရာတော် ဘုရားကြီးတွင် စိတ်အကြံတော်ပေါ်ပေါက်ခဲ့ရကား၊ နောက်တစ်နေ့နံနက် လင်းလျှင်လင်းချင်း တိုက်အုပ်ဆရာတော်ဦးဉာဏောဘာသအား ‘မောင်ဉာဏောရေ့၊ မနေ့ညက စကြံကျောင်း အနောက်ဘက်တခိုဆီက စူးရှနက်နဲသောအသံဝါကြီးဖြင့် စာပြန်လျက်ရှိတဲ့ရဟန်းတော်ကို စုံစမ်းပြီး ခေါ်ခဲ့စမ်းကွဲ့’ဟု အမိန့်ရှိတော်မူလေသည်။ ဆရာတော်ဘုရားကြီး၏အမိန့်တော်အတိုင်း အသံရှင် အရှင်ဝဏ္ဏိတကို ဆရာတော်ဘုရားကြီးထံသို့ခေါ်ဆောင်ခဲ့လေသည်။

လယ်တီဆရာတော်ဘုရားကြီးသည် အရှင်ဝဏ္ဏိတ၏ဇာတိနေရပ်နှင့် ဇာစ်မြစ်စသည်တို့ကို စုံစမ်းပြီး– ‘အေး၊ မောင်ပဥ္စင်း၏အသံသည် အလွန်နက်နဲစူးရှလှသဖြင့် စာချ, စာပြန်, စာအံ အလုပ်တွင်အသုံးမချဘဲ ပရိသတ်အလယ်တွင်တရားဟောပြောရန်အသုံးချရမယ်ကွဲ့’ဟု အမိန့် ရှိတော်မူပါသည်။

ထိုနောက်တွင် လယ်တီဆရာတော်ဘုရားကြီးက ရှေးခေတ်ကဟောပြောခဲ့သော ယပ်ထောင် တရားဟောနည်း၊ မျက်မှောက်ခေတ်၌ဟောကြားနေကြသော ယပ်လှဲတရားဟောနည်းတို့ကို ဖယ်ရှား၍ တရားနာပရိသတ်တို့ကို ဓမ္မရသပြည့်ဝစွာခံယူရရှိစေရန် ညဝါဟောပုံနှင့်တူသော တရားဟောနည်းမူသစ်တစ်ရပ်ကို အရှင်ဝဏ္ဏိတအား ဤသို့လျှင်သင်ပေးတော်မူခဲ့ပါသည်။

‘ရှေးကတော့ သောဘဂဝါ=ထိုမြတ်စွာဘုရားသည်–လို့ ကျက်ပြီးဟောတယ် ကွဲ့၊ တရားဆုံးတဲ့အခါ ဆုတောင်းကြကုန်လို့ပြောပြီး ဗျောရိုက်စည်တီး အကအခုန် တွေနဲ့ တစ်ပွဲသိမ်းပြန်ရော၊ ဒါမျိုးမလုပ်ကြနဲ့ကွဲ့။ ညဝါဆိုသလို လယ်တီဟောကိန်း တရားကြီးလုပ်ရမယ်။ ပါဠိလူမျိုးမဟုတ်တဲ့ မြန်မာလူမျိုးတွေကို ပါဠိပါဌ်သားမပါတဲ့ တရားမျိုးကိုဟောပြောရမယ်။ မောင်ဝဏ္ဏိတက ယနေ့မှစ၍ ငါ့ထံမှာ ငါတို့တရား ဟောပုံဟောနည်းတို့ကို ညဝါပြုပြီး ဝတ်ထားတက်ရမယ်ကွဲ့’–

ဟူ၍မိန့်ဆိုတော်မူပြီး တရားဟောပုံဟောနည်းကို သင်ကြားပေးတော်မူပါသည်။

*[၁] လယ်တီဦးလှပိုင်၏ လယ်တီဂန္ထ ဝင်ကျော်များ။ (စာမျက်နှာ–၄၅၇)၌ ‘အရှင်ဝဏ္ဏိတသည် လယ်ပေါ်ကျောင်းအရှေ့မြောက်ရှိ တံခွန်တိုင်သစ်သားနတ်ရုပ်ပေါ်သို့တက်ရောက်၍ စာပြန်ကြောင်း’ ဖော်ပြထားသည်။

ထိုညမှစ၍ ခန္ဓာ(၅)ပါးကို ငါးရက်တိုင်အောင်၊ ခန္ဓာတစ်ပါးစီတစ်ပါးစီ အကျဉ်းအကျယ် ဝေဖန်ဟောပြောနည်း၊ အာယတန(၁၂)ပါးကို ၁၂-ရက်တိုင်အောင် တစ်ပါးစီတစ်ပါးစီ အကျဉ်းအကျယ်ဝေဖန်ဟောပြောနည်း၊ သစ္စာ(၄)ပါးကို လေးရက်တိုင်အောင် အကျဉ်းအကျယ် ဝေဖန်ဟောပြောနည်း၊*၁ အတ္တဒိဋ္ဌိ၊ သက္ကာယဒိဋ္ဌိ၊ အတ္တာနုဝါဒဒိဋ္ဌိတို့ကိုဖြုတ်ခွင်းပုံ၊ ပယ်ဖြတ်ပုံ စသည်ဖြင့် ဟောပြောနည်းမျိုးစုံကိုစနစ်တကျသင်ပေးတော်မူရာ အရှင်ဝဏ္ဏိတသည် သင်ပေးသမျှကို တိုးတက်အောင်ကြိုးစားအားထုတ်ပြန်သည့်အတွက် ဆရာတော်ဘုရားကြီးကပင် တရားပွဲတစ်ခု၌ တရားထောက် ဝန်ထောက်ကြီးဦးစံမင်းကို- 'မောင်စံမင်းရဲ့၊ တို့က ခန္ဓာ(၅)ပါးကို သုံးညတိုင်သာ ဟောနိုင်တာကွဲ့၊ မောင်ဝဏ္ဏိတက ခုနစ်ညတိုင်အောင် ချဲ့ထွင်၍ဟောနိုင်တယ်ကွဲ့'ဟုပင် ချီးမြှောက်မိန့်ကြားတော်မူခဲ့ပါသည်။

ဆရာတော်ဘုရားကြီးမှာ မဟာထေရ်ကြီးဖြစ်၍ တရားဟောတော်မူရာတွင် တရားသားသက်သက်ကိုသာအရိုးခံအတိုင်းဟောတော်မူပါသဖြင့် ခန္ဓာငါးပါးကိုသုံးည-စသည်ဟောတော်မူခြင်းဖြစ်ပြီး၊ ဦးဝဏ္ဏိတတို့မှာ ထေရ်ငယ်ဖြစ်၍ ဇာတ်စသောဝတ္ထုကြောင်းများကို ညှပ်၍ဟောခြင်းဖြစ်သဖြင့် ခန္ဓာငါးပါးကို ငါးည၊ ခုနစ်ညစသည် ဟောကြားနိုင်ခြင်းဖြစ်ပါသည်။*၂

ချောင်းဦးမြို့သို့ကြွတော်မူခြင်း

လယ်တီဆရာတော်ဘုရားကြီးသည် မုံရွာမြို့နှင့်မဝေးကွာလှသော ချောင်းဦးမြို့သို့ ရှေးရှေးအခါက အကြိမ်ကြိမ်ရောက်ရှိတော်မူခဲ့ဖူးပါသော်လည်း၊ အထက်အောက်နိုင်ငံအဝန်းက ဆည်းကပ်ပူဇော်ခြင်းကိုခံယူရတော်မူသော နိုင်ငံကျော်လယ်တီဆရာတော်ဘုရားကြီးအဖြစ်၌ တစ်ကြိမ်မျှ ပြန်လည်၍မရောက်ရသေးပေ။ သို့ဖြစ်၍ ချောင်းဦးပရိသတ်သည် နဂိုကဆရာတော်ဘုရားကြီးအား ကြည်ညိုရင်း ကိုးကွယ်ဆည်းကပ်ရင်းရှိပြီးဖြစ်ပါသော်လည်း ယခုအခါ၌ ဆရာတော်ဘုရားကြီးမှာ ဘုန်းတန်ခိုးကြီးမား၍ ပင့်လိုသူများပြားနေချိန်တွင် မိမိတို့မြို့သို့ပင့်ဖိတ်ဖို့အရေးမှာ လွန်စွာခက်ခဲနေသည့်အတွက် ဆရာတော်ဘုရားကြီး၏တရားပွဲကို ကျင်းပလိုသောဆန္ဒပြင်းပြလျက်ရှိနေကြသည်။

ထိုစဉ် ချောင်းဦးသို့အသစ်ပြောင်းလာသော မြို့အုပ်ဦးသက်ထွန်းက မုံရွာမြို့ရှိတာဝန်ရှိပုဂ္ဂိုလ်များနှင့်ညှိနှိုင်းပြီး ချောင်းဦးမြို့တွင် လယ်တီဆရာတော်ဘုရားကြီး၏တရားပွဲကျင်းပနိုင်ရေးအတွက်ကြိုးပမ်းခဲ့လေသည်။ သို့ဖြင့် ဆရာတော်ဘုရားကြီးသည် ၁၂၇၄-ခုနှစ်၊ တပို့တွဲလဆန်း(အေဒီ ၁၉၁၃-ခုနှစ်၊ ဖေဖော်ဝါရီလ)တွင် မုံရွာမြို့မှထွက်ခွာ၍ မြင်းမူ၌တရားပွဲကျင်းပမည်။ ထိုမြင်းမူမြို့တရားပွဲအပြီးတွင် မုံရွာမြို့သို့အပြန်၊ ၁၂၇၄-ခုနှစ်၊ တပို့တွဲလဆန်း ၁၃-ရက် (အေဒီ-၁၈၊ ဖေဖော်ဝါရီလ၊ ၁၉၁၃-ခုနှစ်)၌ ချောင်းဦးတွင်ဝင်ရောက်၍ တရားပွဲကြီးများကျင်းပတော်မူလိမ့်မည်-ဟူ၍ တရားပွဲရက်ကိုရရှိခဲ့လေသည်။

---

*၁ ဦးဝဏ္ဏိတ၏ လယ်တီယပ်လှဲတရားစာ။ ဇေယျဝတီပိဋကတ်စာအုပ်ဆိုင်။ ရန်ကုန်မြို့။ (စာမျက်နှာ-၁၉၆)။

*၂ လယ်တီဦးလှတင် (ဦးဝဏ္ဏိတ)၏ (၄၊ ၃၊ ၁၉၇၉) နေ့ မိန့်ကြားချက်ဖြစ်သည်။

ချောင်းဦးမြို့တွင် ဆရာတော်ဘုရားကြီးသီတင်းသုံးတော်မူရန်စံကျောင်းနှင့် တရားဟောရာ မဏ္ဍပ်စသည်အရပ်ရပ်တို့ကိုအခမ်းနားဆုံးဖြစ်အောင်ပြင်ဆင်ထားခဲ့ကြသည်။ လဆန်း ၁၃-ရက်နေ့ ဆရာတော်ဘုရားကြီးမီးရထားဖြင့်ကြွလာတော်မူရာ ချောင်းဦးမြို့အုပ်ဦးသက်ထွန်း၊ ဘီလစ်စာရေးကြီးဦးလှကြီး၊ အငြိမ်းစားမြို့အုပ်မင်းဦးထွန်းကျော်၊ အင်စပက်တော်ဦးဘိုးလှိုင်၊ ချောင်းဦးမြို့ တောင်ပိုင်းမြို့ဝန်ဦးစံရာ၊ မြောက်ပိုင်းမြို့ဝန်ဦးစိုးမောင်၊ ရွာသစ်ရွာသူကြီးဦးစံဝိန်၊ ဘူတာရွာသူကြီး ဦးရဲကျော်တို့အမှူးပြုသော ဥပါသကာ,ဥပါသိကာအပေါင်းများစွာတို့က ကောင်းမွန်ရိုသေစွာ ကြိုဆိုခဲ့ကြပါသည်။

ဆရာတော်ဘုရားကြီးအား ဘူတာရုံမှ ယာယီသီတင်းသုံးရာစံကျောင်းတော်သို့ ပရိသတ်အပေါင်းတို့ကလက်အုပ်ချီမိုးရှိခိုးလျက် မီးပန်းမီးပေါက်များကိုလည်းပစ်ဖောက်ကြကာ ကြီးကျယ်စွာ ကြိုဆိုပင့်ဆောင်ခဲ့ကြသည်။ ထိုတပို့တွဲလဆန်း ၁၃-ရက် (အေဒီ-၁၈၊ ဖေဖော်ဝါရီလ၊ ၁၉၁၃-ခုနှစ်) ည တရားဟောမဏ္ဍပ်ကြီးအတွင်း တရားနာပရိသတ်ငါးထောင်ကျော်တို့ကို ဆရာတော်ဘုရားကြီးက နခသိခသုတ္တန်ဒေသနာ(သံ၊ ၁။၃၅၂၊ ၄၅၄။)ကို စတင်ဟောကြားတော်မူပါသည်။ နောက်တစ်နေ့ညဉ့် ကာဏကစ္ဆပေါပမသုတ္တန်(သံ၊ ၃။၃၉၇။)-စသည်တို့ကို ဟောကြားတော်မူပါသည်။ နောက်တစ်နေ့တွင် ကျွဲသား,နွားသားမစားထိုက်ကြောင်းတရားကို ဟောကြားတော်မူရာ တရားနာပရိသတ်တို့တွင် ယောကျ်ား,မိန်းမအစုစု လူသုံးထောင်ကျော်တို့က အချို့တစ်ဘဝ တစ်သက်ပန်, အချို့ ကာလအကန့်အသတ်စသည် အဓိဋ္ဌာန်နှစ်ပိုင်းဖြင့် လှူဒါန်းခဲ့ကြသည်။ အရက်သေစာ မသောက်တော့ပါဟုလှူဒါန်းသူ ၃၇၂-ဦးလည်းအပါအဝင်ဖြစ်သည်။

လယ်တီဆရာတော်ဘုရားကြီးသည် ချောင်းဦးမြို့တွင် ထိုတပို့တွဲလဆန်း ၁၃-ရက်နေ့မှ တပို့တွဲလပြည့်ကျော် ၄-ရက်နေ့အထိ (အေဒီ-၁၈၊ ဖေဖော်ဝါရီလမှ ၂၄၊ ဖေဖော်ဝါရီလ၊ ၁၉၁၃-ခုနှစ်)အထိ တရားပွဲခုနစ်ညပြုလုပ်ကျင်းပဟောကြားတော်မူခဲ့ပါသည်။ ချောင်းဦးမြို့၌ သီတင်းသုံးနေစဉ် နေ့စဉ်မြို့ပေါ်ရပ်ကွက်အသီးသီးတို့က အလှည့်ကျဝေယျာဝစ္စရထားဖြင့် ဆရာတော်ဘုရားကြီးအား မိမိတို့ရပ်ကွက်အသီးသီးသို့ ပင့်ဆောင်၍ပူဇော်ကြသည်။ တရားဟောမဏ္ဍပ်ကြီးအတွင်းမှာလည်း ညစဉ် ဆီမီးများထွန်းညှိပူဇော်ကြသည်။ ပရမတ္ထသံခိပ်ကုမ္ပဏီအသင်းဝင်သတို့သမီးငယ်များကလည်း သံခိပ်လင်္ကာများရွတ်ဆိုကာပူဇော်ခဲ့ကြသည်။ ဆရာတော်ဘုရားကြီးသည် တပို့တွဲလပြည့်ကျော် ၉-ရက် (အေဒီ-၁၊ မတ်လ၊ ၁၉၁၃-ခုနှစ်) တွင် ချောင်းဦးမြို့မှ မုံရွာမြို့ လယ်တီတောရကျောင်းသို့ ပြန်လည်ကြွမြန်းတော်မူခဲ့ပါသည်။*[၁]

## နိုင်ငံခြားသာသနာပြုအသင်းကြီးတည်ထောင်ခြင်း

မြန်မာနိုင်ငံသားဥပါသကာတို့သည် မိမိတို့ကိုစိုးမိုးအုပ်ချုပ်လျက်ရှိသော အင်္ဂလိပ်လူမျိုးတို့ ဗုဒ္ဓဘာသာသို့သက်ဝင်စေရန်ရည်သန်၍ နိုင်ငံခြားဗုဒ္ဓသာသနာပြုအသင်းအဖွဲ့ကို ရှေးအခါက နှစ်ကြိမ်ဖွဲ့စည်းဖူးခဲ့ကြလေသည်။ ပထမအကြိမ်မှာ သက္ကရာဇ်-၁၂၆၁ (အေဒီ-၁၈၉၉)ခုနှစ်၊

*[၁] လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ ၉၄-၁၀၆)။

မန္တလေးမြို့၌ တောင်ခွင်သာသနာပိုင်နှင့် မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးတို့ ဦးဆောင်နာယက ပြုတော်မူကြ၍ ဦးကျော်ရန်၊ ဦးခင်၊ ဦးသော်-စသောအစိုးရဝန်ထမ်းများ၊ မြို့မျက်နှာဖုံး သမာဓိ မြို့ဝန်၊ လုပ်ငန်းရှင်များတို့ပါဝင်ကြသော 'မန္တလေးမြို့၊ ဗုဒ္ဓသာသနာပြုအသင်း' ဖြစ်သည်။ ဤအသင်းကို အင်္ဂလန်နိုင်ငံသား ဘိက္ခုအာနန္ဒမေတ္တေယျ၏သာသနာပြုလုပ်ငန်းကိုအားပေးပြီး၊ အနောက်နိုင်ငံသားတို့ ဗုဒ္ဓဘာသာဝင်ဖြစ်လာစေရန်အတွက် ဗုဒ္ဓဘာသာအခြေခံစာများကိုပုံနှိပ်၍ အင်္ဂလန်သို့ပို့ရန်၊ ထိုနိုင်ငံများစွာသို့ သံဃာများစေလွှတ်တရားဟောပြောရန်-စသည့်ရည်ရွယ် ချက်များဖြင့် ဖွဲ့စည်းခဲ့ကြခြင်းဖြစ်သည်။ အသင်း၏ရည်ရွယ်ချက်အတိုင်း မင်္ဂလသုတ်ပါးတရား ဒေသနာတော်၊ သီလအဓိပ္ပာယ်လက်စွဲ၊ ဂေါဏမာတိကာသြဝါဒကထာ-စသောစာအုပ်ငယ်များကို ပုံနှိပ်ထုတ်ဝေခဲ့သည်။ ဤအသင်းအနေဖြင့် စာအုပ်ငယ်များထုတ်ဝေနိုင်သည်မှတစ်ပါး အနောက် နိုင်ငံသို့ သာသနာပြန့်ပွားအောင် ထိထိရောက်ရောက်မလုပ်ဆောင်နိုင်ခဲ့ပေ။ အကြောင်းမှာ ထိုအသင်း၌အရေးပါသော ဦးခင်၊ ဦးသော်-စသောအမှုဆောင်လူကြီးများ အစိုးရဝတ္တရားဖြင့် မန္တလေးမြို့မှ ရန်ကုန်မြို့သို့ ရွှေ့ပြောင်းသွားကြရခြင်းကြောင့်လည်းဖြစ်သည်။

ဒုတိယအကြိမ်အနေဖြင့် သက္ကရာဇ်၁၂၆၄-ခုနှစ်၊ တပေါင်းလပြည့်ကျော် ၃-ရက် (အေဒီ- ၁၅၊ မတ်လ၊ ၁၉၀၃-ခုနှစ်)တွင် ဘိက္ခုအာနန္ဒမေတ္တေယျကိုယ်တော်ဦးဆောင်ပြီး မင်းကြီးကတော် ဒေါ်မြမေအပါအဝင် ရန်ကုန်မြို့မှ မင်းပိုင်းစိုးပိုင်းသူဌေးသူကြွယ် ခေတ်ပညာတတ်ကြီးများ ဦးဆောင်၍ဖွဲ့စည်းသော ဗုဒ္ဓသာသနသမာဂမအဖွဲ့အစည်းဖြစ်သည်။[*၁] မန္တလေးမြို့၊ ဗုဒ္ဓသာသနာပြု အသင်းက ဦးခင်၊ ဦးသော်စသောပုဂ္ဂိုလ်များ ဤအသင်း၌ပါဝင်ကြသည်။ အသင်းဦးဆောင်သူ ဒေါ်မြမေကိုယ်တိုင် အင်္ဂလန်သို့သွားရောက်၍ ဗုဒ္ဓသာသနာပြန့်ပွားရေးအတွက် လေ့လာခဲ့ဖူး သည်။[*၂] ဤအဖွဲ့သည် အင်္ဂလန်နိုင်ငံ၌ သာသနာတည်ထွန်းရန်အတွက် ဦးစွာ သံဃာတော်များ အင်္ဂလန်နိုင်ငံတွင် သီတင်းသုံးဖို့အရေးကို ကြိုးပမ်းခဲ့သည်။ ထိုအချိန်က အသင်းတည်ထောင်သူ ဘိက္ခုအာနန္ဒမေတ္တေယျကိုယ်တိုင်ပင် အင်္ဂလန်နိုင်ငံ၏လူနေမှုစနစ်အကြား၌ ရဟန်းသံဃာတို့ အင်္ဂလန်နိုင်ငံ၌ နေထိုင်သီတင်းသုံးရန်ခဲယဉ်းသဖြင့် ထိုအသင်း၏ရည်ရွယ်ချက်မှာ ထ,မြောက် အောင်မြင်သင့်သလောက် မထ,မြောက်ခဲ့ပေ။[*၃]

ဤသို့ မြန်မာနိုင်ငံက အင်္ဂလန်နိုင်ငံ၌ ဗုဒ္ဓသာသနာပြန့်ပွားအောင် သာသနာပြုအဖွဲ့နှစ်ဖွဲ့ ဖွဲ့စည်းဆောင်ရွက်ခဲ့ပြီးနောက် ငါးနှစ်ခန့်အကြာတွင် အင်္ဂလန်နိုင်ငံ၌လည်း ဗုဒ္ဓသာသနာပြန့်ပွား

*၁ Christmas Humphreys' A Buddhist Students' Manual. 1956. Page-28.

*၂ ၁၉၀၈-ခုနှစ်အတွင်း မေလမှ အောက်တိုဘာလအတွင်း သွားရောက်ခဲ့ခြင်းဖြစ်သည်။ ibid, Page-32.

*၃ မောင်ထင်၏ဘိက္ခုအာနန္ဒာမိတ္တေယျ(ဆောင်းပါး)။ ရတနာမွန်စာစောင်၊ မြတ်လေးပန်းစာစောင်။ (စာမျက်နှာ-၄၆)။ သက္ကရာဇ် ၁၃၀၀-ပြည့်နှစ် (အေဒီ ၁၉၃၈-ခုနှစ်) ကမ္ဘာ့ဗုဒ္ဓသာသနာပြု အဘိဓဇဆရာတော်ဘုရားကြီး အရှင်သေဋ္ဌိလာ ဘိဝံသတို့လက်ထက်တိုင်အောင် အင်္ဂလန်နိုင်ငံ၌ သံဃာတော်များနေထိုင်သီတင်းသုံးရန် အခက်အခဲများတွေ့နေရဆဲ ဖြစ်လေသည်။ အရှင်ဉာဏိက၏ ဆရာတော်အရှင်သေဋ္ဌိလ၏ဘဝဖြစ်စဉ်နှင့် ကမ္ဘာ့ဗုဒ္ဓသာသနာပြုမှတ်တမ်း။ ပညာ့ဗိမာန် ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၈၃-ခုနှစ်။ (စာမျက်နှာ-၄၄)။

မုံရွာ
လယ်တီဆရာတော်ဘုရားကြီး
ဦးစီးနာယကပြု၍။
နိုင်ငံခြား-ဗုဒ္ဓဘာသာ
သာသနာပြုအသင်းကြီး
ဖွဲ့စည်းတည်ထောင်။အောင်မြင်ထမြောက်ခြင်း
အကြောင်းကို။ပြဆိုအပ်သော
အတ္ထုပ္ပတ္တိစာတမ်း။

မန္တလေးမြို့
ဗုဒ္ဓဘာသာ-သာသနာပြုအသင်းသတင်းစာပုံနှိပ်တိုက်၊
—o—
ဒုတိယနှိပ်ခြင်းစာအုပ်ရေ(၅၀၀၀)၊
—o—
၁၂၇၅-ခု။

ဗုဒ္ဓသာသနာတော်နှစ်-၂၄၅၇။
ဂေါဇာသက္ကရာဇ် ၁၂၇၅-ခု။နယုန်ဆွန်း-၁၅ ရက်
အင်္ဂလိပ်-၁၉၁၃-ခု။ဇွန်လ-၁၈-ရက်
နေ့တွင်။မန္တလေးမြို့၌။ဖွဲ့စည်း
တည်ထောင်သော။
နိုင်ငံခြား
ဗုဒ္ဓဘာသာ သာသနာပြု
အသင်းဥပဒေ။

RULES OF THE
Society for Propagating Buddhism
in Foreign Countries.

S.P.B.Press. Mandalay.
**1913.**

နိုင်ငံခြားဗုဒ္ဓဘာသာသာသနာပြုအသင်းဆိုင်ရာစာအုပ်စာတမ်းများ



လယ်တီဆရာသိန်း



ဦးကျော်လှ(အသားစားရှောင်ကြဉ်ရေး)

ရေးအတွက် ဂရိတ်ဗြိတိန်နှင့် အိုင်ယာလန်ဗုဒ္ဓဘာသာအသင်းကြီး (Buddhist Society of Great Britain and Ireland) ကို ဘိက္ခုအာနန္ဒမေတ္တေယျ၊ ပါမောက္ခရီးစ်ဒေးဗစ်၊ ပါမောက္ခအက်ဒမန်မီလ် (Prof. Edmund T. Mills, F.R.S)၊ ဒေါက်တာရော့စ် (Dr. Rost) စသော ဥရောပတိုက်သား အသင်းသား(၂၅)ဦးတို့က လန်ဒန်မြို့ ဟာလေလမ်း (Harley Street, London) တွင် သက္ကရာဇ် ၁၂၆၉-ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် ၁၃-ရက် (အေဒီ-၃၊ နိုဝင်ဘာလ၊ ၁၉၀၇) တွင်ဖွဲ့စည်းခဲ့ပါသည်။*၁ ဤအသင်းဝင်ပုဂ္ဂိုလ်များသည် လန်ဒန်မြို့၌ မူလကပါဠိဘာသာစကားကို ဘာသာစကားတစ်ရပ်၊ ပါဠိစာပေကို စာပေတစ်ရပ်အနေဖြင့်သာလေ့လာခဲ့ကြပြီး ယခုအခါ ပါဠိဘာသာ, ပါဠိစာပေ၌ ပါရှိသော ဗုဒ္ဓဘာသာ၏အနှစ်သာရတို့ကိုလေ့လာသိမြင်ကြကာ နှစ်သက်သဘောကျလာသောကြောင့် ဗုဒ္ဓဘာသာသာသနာတော်သို့ သက်ဝင်လာကြမည့်အဆင့်သို့ ရောက်ရှိခဲ့ကြသည်။ ဤအသင်းသားများက မိမိတို့ အင်္ဂလန်နိုင်ငံ၊ လန်ဒန်မြို့၌ ဗုဒ္ဓသာသနာထွန်းကားရေးကိုလိုလားကြသည့်အတွက် မြန်မာ၊ သီဟိုဠ်၊ ထိုင်း-စသည့်ဗုဒ္ဓဘာသာဝင်နိုင်ငံတို့ထံမှ အကူအညီများတောင်းခံခဲ့ကြသည်။*၂

ဂရိတ်ဗြိတိန်နှင့် အိုင်ယာလန်ဗုဒ္ဓဘာသာအသင်းကြီးသည် မြန်မာနိုင်ငံအနေဖြင့် ဤအချိန်တွင် သာသနာရေးဘက်၌ တစ်နိုင်ငံလုံးကိုလွှမ်းမိုးနိုင်သော လယ်တီဆရာတော်ဘုရားကြီးထံ အကူအညီများတောင်းခံသည့်အတွက် ဆရာတော်ဘုရားကြီးကလည်း သူ့ကျွန်ဘဝနင်းပြားဖြစ်ရသည့် မြန်မာလူမျိုးတို့၏ဗုဒ္ဓသာသနာသည် ထိုအရှင်သခင်ခေါ် အင်္ဂလိပ်လူမျိုးတို့၏ဦးထိပ်ထက်၌တည်နေတော့မည်-ဟူ၍ သာသနာချစ်စိတ်, အမျိုးချစ်စိတ်တည်းဟူသောစိတ်ဆန္ဒနှစ်ပါးတို့ဖြင့် 'သင်တို့အလိုရှိရာ ငါတို့ကူညီမည်၊ ငါတို့၏သာသနာတော်သည် တစ်ကျွန်းတစ်နိုင်ငံ၌ ထွန်းလင်းပျံ့နှံ့တည်ပါစေ' စသည်မိန့်ကြားကာ နိုင်ငံခြားသာသနာပြုအသင်းကြီးကိုဖွဲ့စည်းရန် အစီအစဉ်များပြုတော်မူခဲ့ခြင်းဖြစ်ပါသည်။

လယ်တီဆရာတော်ဘုရားကြီးသည် ရှေးရှေးကဖွဲ့စည်းခဲ့ဖူးသော မန္တလေးမြို့ဗုဒ္ဓသာသနာပြုအသင်းနှင့် ရန်ကုန်မြို့ ဗုဒ္ဓသာသနသမာဂမအဖွဲ့-ဟူသောအသင်းနှစ်ဖွဲ့၌ ပါဝင်လုပ်ဆောင်ခဲ့ကြသူတို့၏အကူအညီဖြင့်ပင် နိုင်ငံခြားသာသနာပြုအသင်းကြီးကို သက္ကရာဇ် ၁၂၇၅-ခုနှစ်၊ နယုန်လဆန်း ၁၅-ရက် (အေဒီ-၁၈၊ ဇွန်လ၊ ၁၉၁၃-ခုနှစ်)နေ့တွင် မန္တလေးမြို့တောင်ပြင်ကဋ္ဌနမဟီရပ်ရှိ ပွဲစားကြီးဦးဘိုးသာပိုင် ဝိုင်အမ်ဘီအေအသင်းရုံး*၃ ၌ အသင်းသူအသင်းသားဥပါသကာ, ဥပါသိကာတစ်ရာကျော်တို့ဖြင့် ဖွဲ့စည်းတည်ထောင်တော်မူပါသည်။ ဤအသင်းတွင် လယ်တီဆရာတော်ဘုရားကြီး၏ ပင်မအသင်းအဖွဲ့များဖြစ်သော ပရမတ္ထသံခိပ်အသင်းများ၊

---

*၁ Christmas Humphreys' A Buddhist Students' Manual. 1956. Page-31.

*၂ ထိုအခါက ထိုင်းဘုရင်မင်းမြတ်ကလည်း အကူအညီများပေးခဲ့သည်။

*၃ ဤဝိုင်အမ်ဘီအေအသင်းရုံးသည် ယခု မန္တလေးမြို့ ချမ်းအေးသာစံမြို့နယ် ကဋ္ဌနမဟီရပ်၊ အကွက်(၆၂၆)၊ ၃၁-လမ်း၊ ၃၂-လမ်းနှင့် ၇၆-လမ်း၊ ၇၇-လမ်းအကြား၌ရှိသည်။ ဤရပ်ကွက်ကို မြေနီကျင်းရပ်-ဟုလည်းခေါ်ကြသည်။

ပဋ္ဌိစ္စသမုပ္ပါဒ်အသင်းများ၊ ဓာတ်ကမ္မဋ္ဌာန်းအသင်းများ၊ စက်ပရိတ်အသင်းများ–စသည့်အသင်းအဖွဲ့တို့မှ ဦးဆောင်ဒါယကာကြီးများလည်းပါဝင်ကြသဖြင့် ထိုခေတ်ထိုအခါက အမြို့မြို့အရွာရွာမှ ကိုယ်စားလှယ်တော်များစွာပါဝင်ကြသော အလွန်တောင့်တင်းပြည့်စုံသည့်အသင်းကြီးဖြစ်လေသည်။

နိုင်ငံခြားသာသနာပြုအသင်းကြီး အစည်းအဝေးကြီးတွင် လယ်တီဆရာတော်ဘုရားကြီးက အောက်ပါမိန့်ခွန်းတော်ကို မိန့်ကြားတော်မူခဲ့ပါသည်။

ယခု နိုင်ငံခြားသာသနာပြုအသင်းကြီးဖွဲ့စည်းတည်ထောင်ရခြင်း၏အကြောင်းမှာ ဆရာတော်သည် ဤမြန်မာနိုင်ငံသူနိုင်ငံသားတို့၏အကျိုးကိုသယ်ပိုးဆောင်ရွက်ခဲ့သည်မှာ ဆယ်နှစ်တာမျှကြာရှိခဲ့လေပြီ။ ယခုလည်း သယ်ပိုးဆောင်ရွက်ဆဲပင်ဖြစ်သည်။ ရှေ့သို့လည်း ကာယဗလခိုင်ခံ့သမျှကာလပတ်လုံး သည်ပိုးဆောင်ရွက်လတ္တံ့ပင်ဖြစ်သည်။

ဆရာတော် သည်ပိုးဆောင်ရွက်သည့်အတွက် အထက်အောက်မြန်မာနိုင်ငံတစ်ဝန်းလုံးတွင် ထင်ပေါ်ထင်ရှားလျက်ရှိနေသည့် အကျိုးစီးပွားများမှာလည်း ရှင်ရှင်လူလူပြည်သူအများတို့ ကြည့်ရှုမှတ်သားသင်ကြားလေ့ကျက်ကြစေရန် အချို့ပါဠိဘာသာ, အချို့မြန်မာဘာသာနှင့် ကောင်းစွာစီရင်သည့်ဒီပနီကျမ်းပေါင်း, ဝိနိစ္ဆယကျမ်းပေါင်း စောင်ရေငါးဆယ်ကျော် ခြောက်ဆယ်ခန့်တို့သည် ယခုအခါ မြန်မာလူမျိုးတို့၏အလင်းကြီးတွေဖြစ်ခဲ့သည်မှာ မြန်မာရခိုင်နိုင်ငံတစ်လွှား သိမြင်ထင်ရှားလျက်ရှိလေပြီ။

သုတ္တန်, အဘိဓမ္မာ နက်နဲစွာသောဘာသာတရားကြီးတို့ကို အသီးသီးထုတ်ဖော်ခင်းကျင်း ထင်းလင်းစွာပြောဟောမှုနှင့် အမြို့မြို့အရွာရွာတို့မှာ မြန်မာနိုင်ငံတွင် တစ်ခါတစ်ရံမျှမကြုံဖူး, မကြားစဖူး,အထူးတလည် အံ့ဖွယ်သူရဲ မဖြစ်ဖူးမြဲတရားပွဲကြီးတွေပြုလုပ်ခဲ့လေသည်မှာလည်း အများသိရှိကြလေပြီ။

အဘိဓမ္မာသာသနာနေမင်းထွန်းလင်းစေရန် စာပြန်ပွဲကြီးငယ် ဖွယ်ရာသမှုပြုလုပ်ကျင်းပခဲ့သည်မှာလည်း အခါပေါင်းများလှလေပြီ။ အမြို့မြို့အရွာရွာတို့၌ မလိမ္မာသူ လူငယ်အများ ကာလသားတို့ကို အသောက်အစား အကစားတို့မှ များစွာချွတ်ခဲ့ရလှလေပြီ။

ငါတို့ မြန်မာနိုင်ငံသူနိုင်ငံသားတို့၏ ဘိုးဘွားစဉ်ဆက် အသက်သခင်စည်းစိမ်သခင် အစဉ်ထာဝရဖြစ်ကြပေကုန်သော ကျွဲ,နွားသတ္တဝါအပေါင်းတို့ကို အသောင်းများစွာ အသက်ဘေးမှချမ်းသာရအောင် ရွက်ဆောင်ခဲ့ရလှလေပြီ။

ပလိပ်ရောဂါ, ဝမ်းရောဂါ ကပ်ဥပဒ်အန္တရာယ်အမြောက်အများ ဖြစ်ပွားရှိနေရာထိုထိုမြို့ရွာများတို့သို့ ကိုယ်တိုင်ကြွသွား၍ အလျင်အမြန်ပျောက်ငြိမ်းတဲ့စေရန် စီမံအားထုတ်သဖြင့် သုံးရက်အတွင်း, လေးရက်အတွင်း အရှင်းပျောက်ကင်းချမ်းသာကြသည်မှာလည်း နိုင်ငံပေါ်တွင်ထင်ရှားလျက်ရှိလေပြီ။

ဤမျှလောက် မိမိနိုင်ငံ၏အကျိုးကို သည်ပိုးရွက်ဆောင်၍နေစဉ်အခါမှာ နိုင်ငံခြားတိုင်းတစ်ပါးတို့၌ ဗုဒ္ဓဘာသာသာသနာတော်၏အရေးအခွင့်များကို နားတစွင့်စွင့်နှင့်ပင် လင့်စားတောင်းတလျက် အချက်ကောင်းကိုဘယ်လိုပေါ်ပါ့မည်ဟု တမျှော်တည်း မျှော်ခေါ်လျက်ရှိနေပေသတည်း။

မျှော်ခြင်း၏အကြောင်းမူကား မြန်မာ့အရှင် သီပေါမင်းလက်ထက်ဆီကပင် အင်္ဂလိပ်နိုင်ငံသို့ ပိဋကတ်သုံးပုံပါဠိတော်ကျမ်းအစုံ ဆောင်ယူရောက်သွားသည်ကို ကြားသိရဖူးပေသည်။ ငါတို့ဗုဒ္ဓဘာသာမှာ ထိုထိုအရပ်သို့ ပိဋကတ်တော်ကြီးပေါက်ရောက်၍သွားမှ သာသနာတော်ကြီးပေါက်ရောက်နိုင်သည်၊ ပိဋကတ်သုံးပုံကြီးရောက်လျှင် မြတ်စွာဘုရားကြီးကိုယ်တော်တိုင်ရောက်သည်နှင့် အလားတူလေသည်။ ထိုနိုင်ငံမှာ ပိဋကတ်သုံးပုံကြီးရှိနေသမျှကာလပတ်လုံး မြတ်စွာဘုရားကြီးကိုယ်တော်တိုင်ရှိနေသည်နှင့် အလားတူလေသည်။

ရှေးအခါ၌ သာသနာပြုပုဂ္ဂိုလ်များသည် ပိဋကတ်သုံးပုံဆောင် ပဋိသမ္ဘိဒါပတ္တပုဂ္ဂိုလ်များဖြစ်ကြ၍ သာသနာပြုပုဂ္ဂိုလ်ရောက်လျှင် နှုတ်တော်၌ ပိဋကတ်တော်ကြီးပါလေတော့သည်။ နောက်အခါ၌မူကား ပိဋကတ်တော်များကို နှုတ်တက်ရွရွမဆောင်နိုင်ကြသည်နှင့် သာသနာပြုပုဂ္ဂိုလ်သွားသော်လည်း ပိဋကတ်တော်မပါ၊ ပိဋကတ်တော်မပါလျှင်လည်း သာသနာမရောက်၊ သာသနာကိုတွင်ကျယ်စွာမပြုနိုင်။ ဒိဋ္ဌိတောကြီးဖြစ်နေကြသောအရပ်ဒေသတို့၌ ဒါန,သီလတရားမျှကို ဟောတတ်ရုံနှင့် သာသနာမပြုနိုင်၊ သာသနာပြုအတုအပမျှသာဖြစ်ကြလေသည်။

ထို့ကြောင့် ရှေးအခါ၌ သထုံပြည်မှာသာသနာပြုလိုသော် သီဟိုဠ်မှာရှိသော ပိဋကတ်တော်ကြီးကို သထုံပြည်သို့ရောက်အောင် ဆောင်ယူရလေသည်။ ပေါက္ကံ (ပုဂံ)ပြည်မှာသာသနာပြုလိုသော် သထုံပြည်မှာရှိသော ပိဋကတ်တော်ကြီးကို ပေါက္ကံ (ပုဂံ)ပြည်သို့ရောက်အောင် ဆောင်ယူရလေသည်။ ဟံသာဝတီဆင်ဖြူရှင်မင်းတရားကြီးသည် ရှမ်းကိုးဆယ့်ကိုးစော်ဘွားမှာ သာသနာပြုလိုသော် ဟံသာဝတီနေပြည်တော်မှ ပိဋကတ်တော်ကြီးကို အစုံပေါင်းကိုးဆယ့်ကိုး ရှမ်းပြည်(နယ်)တစ်ရိုးသို့ ပို့ရောက်စေပြီးမှ သာသနာပြုပုဂ္ဂိုလ်များကို အသီးအသီးစေလွှတ်ရလေသည်။

သို့ရာတွင် အင်္ဂလန်နိုင်ငံသို့ ပိဋကတ်သုံးပုံပါဠိတော်ကြီး ပေါက်ရောက်လေသော်လည်း ထိုအခါ၌ အင်္ဂလိပ်ပြည်မှာ ပါဠိဘာသာတတ်မြောက်သူ အလွန်နည်းပါးလှသေးသည်ဖြစ်၍လည်းကောင်း၊ ပါဠိတတ်ရဟန်းတော်များ တစ်ပါးတစ်ယောက်မျှ မပေါက်ရောက်ကြသေးသည်ဖြစ်၍လည်းကောင်း ပိဋကတ်တော်ကြီးကို ဗုဒ္ဓဘာသာတရားပွားစီးလေအောင် မရွက်ဆောင်နိုင်သေးရှိကြလေသည်။

ယခုအခါမှ ၎င်းပြည်မှာ ပါဠိဘာသာလေ့လာတတ်မြောက်သူ အတော်ကြီးပွားများ၍လာပေသည်။ လောကဓာတ်ပညာကြီးတွေ ပွားစီး၍လာပေသည့်အတွက်

မန္တလေးမြို့ အနောက်ပြင် သီရိဟေမာပိုက်ကျုံးရပ်၌ အေဒီ၁၉၁၃-ခုနှစ်ကတည်ဆောက်ခဲ့သော ဦးမှူ-ဒေါ်မြခဲတို့၏တိုက်အိမ်ကြီးဖြစ်ပြီး ဤတိုက်ကြီးဆောက်လုပ်ပြီးစတိုက်သစ်တွင် လယ်တီဆရာတော်ကြီးတစ်လခန့် သီတင်းသုံးတော်မူခဲ့ပါသည်။



လယ်တီဆရာတော်ကြီး၏တပည့်ရင်း
နိုင်ငံခြားသာသနာပြုအသင်း၏ဒုတိယဥက္ကဋ္ဌ
အောင်ချမ်းသာသစ်စက်ပိုင်ရှင်ဦးမှူ

လည်း အဘိဓမ္မာအချက် နက်နဲသောဗုဒ္ဓဘာသာတရားကြီးတို့၏ပွားစီးရန် အခါ အခွင့်ဆိုက်ရောက်လာပေသည်။

ယခုအခါ ထိုနိုင်ငံများမှာ အလွန်နက်နဲသောသုတ္တန်ပါဠိတော်ကြီးများနှင့် အဘိဓမ္မာပိဋကတ်တော်ကြီးများကို စီးစီးဝါးဝါးအားထုတ်လုပ်ကြလျက်ရှိနေကြလေပြီ။ ဤအကြောင်းကိုလည်း နောက်၌ဖော်ပြပါရှိသော လန်ဒန်မြို့ ပါဠိဘာသာအသင်းကြီးက အားရနှစ်သက်ချီးမွမ်းချက် အထူးကျေးဇူးတင်သံနှင့်အတန်တန်ရောက်လာသည့်လျှောက်လွှာမှာစာများကို ကြားသိကြကုန်သဖြင့် အမှန်ယုံကြည်ကြကုန်လတ္တံ့။

သာသနာပြုမှုမှာလည်း ရှေးအခါ၌ သာသနာပြုပုဂ္ဂိုလ်များကိုယ်တိုင်သွား၍ တရားဟောပြောမှ ဖြစ်နိုင်ကြလေသည်။ ယခုအခါ၌မူကား ထိုထိုနိုင်ငံမှာ ပညာရှိကြီးများ အားရနှစ်သက်နိုင်လောက်အောင် ကျမ်းစာစောင်တစ်ခု ပြုစုစီရင်၍ တင်ပို့လိုက်လျှင်ပင် ကိုယ်တိုင်သွား၍ ဟောကြားသည်ထက် အဆင့်ဆင့် သတင်းစာထုတ်မှု၊ အဆင့်ဆင့် စာအုပ်ရိုက်ထုတ်မှုတို့ဖြင့် အလျင်အမြန် နိုင်ငံနီးဝေး မနေး အလျောက် ရောက်ပေါက်ပျံ့ပွား နှံ့ပြားစေနိုင်လေသည်။

ဆရာတော် မျှော်လင့်၍နေသည်အတွင်းမှာ လန်ဒန်မြို့ ဗုဒ္ဓဘာသာအသင်းကြီးမှ အဘိဓမ္မာအမေးပုစ္ဆာ ဆိုက်ရောက်လာလေသည်ကို ဆရာတော် အလွန်ဝမ်းမြောက်ဝမ်းသာရှိသဖြင့် သူတို့၏အမေးပုစ္ဆာကြေပြေရုံမက အဆများစွာပိုမိုလျက် ဗုဒ္ဓဘာသာတွင် လိုရင်းအချက် အနက်အနဲကြီးအမျိုးမျိုး၊ အဘိဓမ္မာဒေသနာတွင် လိုရင်းအချက် အနက်အနဲကြီးအမျိုးမျိုးတို့ကို စပ်မိစပ်ရာက အပါထည့်သွင်း၍ ရှင်းလင်းစွာဖြေဆိုရေးသား ပေးပို့လိုက်လေသည်။

ဤသို့ မေးသူဖြေသူနှစ်ဦးသားတို့ အားရနှစ်သက် ဆက်သွယ်ရောနှောမိကြသည့်အတွင်းမှာ အထက်ကရောက်ရှိရင်း ပိဋကတ်သုံးပုံပါဠိတော်ကြီးသည် အင်္ဂလိပ်ဘာသာပြန်ဆိုမှုလည်း အပြီးမရောက်သေး။ ပိဋကတ်တိုက်တည်ထောင်မှုကြီးလည်း အပြီးမရောက်နိုင်သေး ရှိနေသည်များကို ကြားသိရပြန်သည့်အခါ ငါတို့ဗုဒ္ဓဘာသာတိုင်းရင်းသားတို့က ကြောင့်ကြမပြု လျစ်လျူရှုနေထိုက်သောအရာမဟုတ်ပေ။ တတ်အားသမျှ ကူညီထိုက်လှသော ငါတို့သာသနာ့ကိစ္စကြီးဖြစ်ပေသည်။

ဓမ္မာသောကမင်းကြီးသည် မြတ်စွာဘုရား၏သရီရဓာတ်တော်တို့ကို တစ်ကမ္ဘာလုံးနှံ့ပြားစေခြင်းငှာ ဇမ္ဗူဒီပါတစ်ကျွန်းလုံးရှိ မြို့ပေါင်းရှစ်သောင်းလေးထောင် တည်တော်မူဘိသကဲ့သို့ အကျိုးစီးပွားများမြတ်ရန် အခွင့်ရှိခဲ့လျှင် ငါတို့ ဗုဒ္ဓဘာသာတိုင်းရင်းသူတိုင်းရင်းသားတို့က ပိဋကတ်သုံးပုံပါဠိတော်ကြီးများကို တစ်ကမ္ဘာလုံးနှံ့ပြားစေခြင်းငှာ ဇမ္ဗူဒီပါတစ်ကျွန်းလုံးရှိ မြို့ပေါင်းအသောင်းများစွာတို့မှာပင် ပိဋကတ်တိုက် ဓမ္မစေတီတော်ကြီးပေါင်း အသောင်းမက ငါတို့ကတည်ထောင်၍ထားသင့်လှပေသည်။ ဘာသာရှင်တိုင်းရင်းသားတို့က အားကျဖွယ်ကောင်းလှသော ငါတို့

သာသနာကိစ္စကြီးဖြစ်ပေသည်ဟု အကြံပြုမိပြန်သည်နှင့် ဤနိုင်ငံခြားသာသနာပြု အသင်းကြီးကို ဖွဲ့စည်းတည်ထောင်ပေသတည်း။

တည်ထောင်သည့်အတိုင်းလည်း ဆရာတော်ကိုယုံကြည်လေးမြတ်သူများကြ သည်တစ်ကြောင်း၊ ယုံကြည်လေးမြတ်ကြသည့်အတိုင်းလည်း ယခု ပထမကျမ်း စာစောင်ပို့လိုက်ကာမျှနှင့်ပင် အင်္ဂလန်ဌာနမှာ သာသနာအကျိုး တိုးကြီးတိုးပွား ကြီးပွားများမြတ်ရန်အခွင့်တွေ အထွေထွေပေါ်ပေါက်လာသည်များကို ကြားနာ ကြရသည်တစ်ကြောင်း၊ သို့အကြောင်းများကြောင့် အားတက်သရော မနောရွှင်ကြ ကုန်သဖြင့် ဓမ္မဒါန, ဓမ္မပူဇာ ပါဝင်လှူဒါန်းကြသူ အများရှိလေရကား ယခုအခါ ဤနိုင်ငံခြားသာသနာပြုအသင်းကြီးသည် သမ္မာဒေဝနတ်များအပေါင်း သောင်း သောင်းဆူကြွ ကူညီကြသကဲ့သို့ ထမြောက်အောင်မြင်လေသတည်း။*၁

ဆရာတော်ဘုရားကြီးက နိုင်ငံခြားသာသနာပြုအသင်းကြီးကလုပ်ဆောင်ရမည့် လုပ်ငန်း စဉ်များ အကောင်အထည်ဖော်နိုင်ရေးအတွက်ကိုရည်သန်လျက် အသင်းရည်ရွယ်ချက်(၆)ချက်ကို အောက်ပါအတိုင်းချမှတ်ခဲ့သည်။ ယင်းတို့မှာ-

၁။ အင်္ဂလန်ပြည် မန်ချက်စတာမြို့ရှိ ပါဠိတတ်စ်ဆိုဆိုက်တီးအသင်း (Pāli Texts Society) က အင်္ဂလိပ်အက္ခရာဖြင့်ရေးသားပြီး သင်္ဂါယနာတင်ပိဋကတ်ကျမ်းစာ များကို အင်္ဂလိပ်ဘာသာဖြင့်ပြန်ဆိုရေးသားရာ၌ စရိတ်ငွေတတ်နိုင်သမျှထောက်ပံ့ ကူညီခြင်း၊

၂။ လန်ဒန်မြို့ကြီးတွင်ဖွဲ့စည်းတည်ထောင်ပြီးဖြစ်သော ဂရိတ်ဘရိတန် အိုင်ရာလန် ဗုဒ္ဓဘာသာသာသနာပြုအသင်းကြီးနှင့် နိုင်ငံခြား၌တည်ရှိသော အခြား ဗုဒ္ဓဘာသာ သာသနာပြုအသင်းများ ကြီးပွားတိုးတက်စေရန် တတ်နိုင်သမျှ ထောက်ပံ့ကူညီခြင်း၊

၃။ လယ်တီဆရာတော်ဘုရားကြီးကိုယ်တော်တိုင် ရေးသားစီရင်တော်မူသော ကျမ်းစာအမျိုးမျိုး၊ ဒီပနီအမျိုးမျိုးတို့အတွက် နိုင်ငံခြား၌အကျိုးကျေးဇူးများ မည့်စာများကို ရွေးချယ်ပြီးလျှင် အင်္ဂလိပ်အက္ခရာ အင်္ဂလိပ်ဘာသာပြန်ကို ပုံနှိပ်လုပ်ဆောင်ရာတွင် ကုန်ကျသောစရိတ်ငွေများကို ထောက်ပံ့ခြင်း၊

၄။ နိုင်ငံခြားပညာရှိကြီးတို့က ဗုဒ္ဓဘာသာတရားဓမ္မအယူဝါဒနှင့်စပ်၍ ဆရာတော် ဘုရားကြီးထံမေးလျှောက်သည်ကို အကြောင်းပြုပြီးလျှင် ပါဠိဘာသာဖြင့် ရေးသားပြန်ကြားတော်မူသော အဖြေဝိသဇ္ဇနာစာများကို အင်္ဂလိပ်အက္ခရာ အင်္ဂလိပ်ဘာသာပြန်ဆိုရာ၌ ကုန်ကျမည့်စရိတ်ငွေများကို ထောက်ပံ့ခြင်း၊

*၁ နိုင်ငံခြားဗုဒ္ဓဘာသာသာသနာပြုအသင်းကြီး၏ အတ္ထုပ္ပတ္တိစာတမ်း။ ၁၂၇၅-ခုနှစ်။ (စာမျက်နှာ ၂၇-၃၂)။

၅။ ရည်ရွယ်ချက်အပိုဒ် (၃) နှင့် (၄) အရ စာများကို လန်ဒန်မြို့ ဂရိတ်ဘရိတန် အိုင်ရာလန် ဗုဒ္ဓဘာသာသာသနာပြုအသင်းကြီးက သုံးလတစ်ကြိမ် ပုံနှိပ်လုပ်ဆောင်ထုတ်ဝေသော ဗုဒ္ဓစ်ရီဗျူး(Buddhist Reviews) *၁ ခေါ် ဗုဒ္ဓဘာသာတရားသတင်းစာအုပ်၌ဖြစ်စေ၊ ဘာသာအယူဝါဒနှင့်စပ်၍ နိုင်ငံခြားတွင် ထုတ်ဝေသောသတင်းစာအုပ်များ၌ဖြစ်စေ နိုင်ငံရင်းဘာသာပြန်ဆိုထည့်သွင်းသည့်အခါ ကုန်ကျသောစရိတ်ငွေများကို ထောက်ပံ့ကူညီခြင်း၊

၆။ နိုင်ငံခြားတွင် ဗုဒ္ဓဘာသာသာသနာတော်မြတ် တည်ထွန်းတိုးပွားရန် အရေးကိစ္စအမျိုးမျိုးတို့နှင့်စပ်၍ အသင်းအင်အားအလျောက် ချီးမြှောက်ပြုစုထောက်ပံ့ကူညီခြင်း–စသည်တို့ဖြစ်ပါသည်။ *၂

အထက်ပါအတိုင်း အသင်း၏ရည်ရွယ်ချက်တို့ကို ဦးကျော်ရန်က ကြွရောက်လာသော ပရိသတ်အပေါင်းတို့အားဖတ်ကြားပြီးသောအခါ အများပရိသတ်တို့ကသဘောတူလက်ခံကြသည့်အတွက် လယ်တီဆရာတော်ဘုရားကြီးအား အကြီးအမှူး(Patron) ပြုလျက် 'နိုင်ငံခြားဗုဒ္ဓဘာသာသာသနာပြုအသင်းကြီး' (Society for Propagating Buddhism in Foreign Countries) ကို ဖွဲ့စည်းတည်ထောင်ကြလေသည်။

အသင်းကြီးအထမြောက်ရေးအတွက် အစည်းအဝေးသို့တက်ရောက်လာကြသည့် ဦးဒွေး(မုံရွာ)၊ ဦးဘိုးသက်(တောင်သာ)၊ ဦးကြော့(မုံရွာ)၊ ဦးစံလင်း(မုံရွာ)၊ ဦးညို(မုံရွာ)၊ ဦးစံလှ(မုံရွာ)၊ ဆရာသဲကြီး(မုံရွာ)၊ ဦးလှ(မုံရွာ)၊ ဦးမြ(မုံရွာ)၊ ဦးဘိုးထင်(ဆားထုံး)၊ ဦးလှကြီး(ချောင်းဦး)၊ ဦးကျော်ထင်(ချောင်းဦး)၊ ဦးစံချိန်(မြင်းမူ)၊ ဦးဘုန်းကျော်(တောင်သာ)၊ ဦးသိုးတင်(မလှိုင်)၊ ဦးစံဘေ(မြစ်သား)၊ ဦးဘိုးသောင်း(မြစ်သား)နှင့် မန္တလေးမြို့ပေါ်မှ ဦးကျော်ရန်၊ ဦးဘတုတ်၊ ဦးဘိုးကြွယ်၊ ဦးမောင်ကြီး၊ ဦးဘိုရင်၊ ဦးဘ၊ ဦးမင်း၊ ဦးမောင်ကြီး၊ ဦးဘိုးကြွယ်၊ ဦးစောလှဦး၊ ဦးစံလှပေါ်၊ ကိုစံဘ၊ လယ်တီဆရာသိန်း၊ ဦးဘိုးလှူ၊ ဦးမှူ၊ ဦးထွန်းရောင်၊ ဦးဘိုးအို၊ ဆရာခ၊ ဆရာသန့်၊ ဦးရွှေဂန်၊ ဦးထွန်း၊ ရှမ်းပွဲဦးဘော၊ အောင်နန်းရိပ်သာဦးဘော၊ ဦးညွှင်း၊ ဦးကျား၊ ကိုလှ၊ ကိုသာဒွန်း၊ ဆရာဖဲ၊ မင်းကတော်မညွန့်၊ ဂူအမဒေါ်သိန်း၊ မမတုတ်၊ ဂမ္ဘီသာရသူဌေးသမီး ရေနံတွင်းရှင်ခင်ခင်၊ ဒေါ်လုံ၊ မကျီးကျီး–စသောဥပါသကာ, ဥပါသိကာတို့မှတစ်ဖန် တစ်နှစ်တာအတွက် အမှုဆောင်အဖွဲ့ကိုပြန်လည်ဖွဲ့စည်းရာ သက္ကရာဇ် ၁၂၇၅/၁၂၇၆–ခုနှစ်အတွက် အမှုဆောင်အဖွဲ့မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

---

*၁ ဤစာစောင်ကို ၁၉၀၉–ခုနှစ်၊ ဇန်နဝါရီလ(၁)ရက်နေ့တွင် ရှေးဦးပထမထုတ်ဝေနိုင်ခဲ့ပါသည်။ အယ်ဒီတာမှာ ကပ္ပိတန်အယ်လန် (Captain Ellam) ဖြစ်သည်။ Christmas Humphreys' A Buddhist Students' Manual. 1950. Page-40.

*၂ နိုင်ငံခြားဗုဒ္ဓဘာသာသာသနာပြုအသင်းကြီး၏ အစ္စည်းပွတ္တိစာတမ်း။ ၁၂၇၅–ခုနှစ်။ (စာမျက်နှာ ၈–၉)။

၁။ အကြီးအချုပ်ဆရာတော် – မုံရွာလယ်တီဆရာတော်ဘုရားကြီး၊
၂။ အသင်းဥက္ကဋ္ဌလူကြီးမင်း – ဦးကျော်ရန် (A.T.M.)၊
၃။ ဒုတိယဥက္ကဋ္ဌ လူကြီးမင်း – ဦးဘတုတ် (K.I.H.)၊ ဗဟိုဘဏ်လီမိတက်ဥက္ကဋ္ဌ၊
– ဦးမူ (ပွဲစားကြီး)၊ ကျောင်းဒကာကြီး၊
၄။ ဂျာနရယ်စက္ကရီတေရီ – ဦးဘ၊ ဗုဒ္ဓသာသနာနုဂ္ဂဟ ဟိုက်စကူးကျောင်း–ကျောင်းအုပ်ကြီး၊
၅။ ဒုတိယစက္ကရီတေရီ – ဦးစံလင်း၊ ဒုတိယတန်း အမိန့်တော်ရရှေ့နေ၊
၆။ ငွေထိန်းလူကြီး – ဦးဘိုးရင်၊ သမာဓိမြို့ဝန်၊ စိန်ကျောက်ကုန်သည်ကြီး၊
၇။ စာရင်းစစ်လူကြီးများ – ဦးကြော့ (K.I.H)၊ အမိန့်တော်ရရှေ့နေ(မုံရွာ)
– ဦးစံဖေ၊ အမိန့်တော်ရရှေ့နေ(မြစ်သား)
၈။ ငွေထားရန်ဘဏ်တိုက် – မန္တလေးမြို့ အထက်မြန်မာပြည်ဗဟိုဘဏ်လီမိတက်
၉။ အသင်းတည်ရာဌာန – မန္တလေးမြို့ ၈၅–လမ်းနှင့် ၃၃–လမ်းထောင့် ဆေးရိုးဝင်းရှိ အသင်းဥက္ကဋ္ဌကြီးဦးကျော်ရန်၏နေအိမ်။

ထိုနိုင်ငံခြားသာသနာပြုအသင်း ဖွဲ့စည်းတည်ထောင်သောနေ့မှာပင် အသင်းလုပ်ငန်းများလုပ်ဆောင်ရန် ထည့်ဝင်လှူဒါန်းကြသော အလှူငွေပေါင်းမှာ ၅၆၄၉–ကျပ်၊ ၉–ပဲ၊ ၃–ပိုင်ဖြစ်ပါသည်။[*၁]

ပြင်သစ်ပုစ္ဆာ

လယ်တီဆရာတော်ဘုရားကြီးသည် နိုင်ငံခြားသာသနာပြုအသင်းကြီးတည်ထောင်ဖွဲ့စည်းပြီးနောက် မန္တလေးမြို့မှာပင် သီတင်းသုံးနေတော်မူလျက်ရှိစဉ် သက္ကရာဇ် ၁၂၇၅–ခုနှစ်၊ နယုန်လအတွင်း (အေဒီ ၁၉၁၃–ခုနှစ်၊ ဇွန်လ) တွင် မန္တလေးမြို့ အထက်မြန်မာနိုင်ငံတရားဌာနချုပ်ဝန်မင်းကြီးရုံး ရုံးစာရေးကြီး ပြင်သစ်လူမျိုးဘိုရှင်သည် ပြင်သစ်ပြည် ပါရီမြို့တော်မှ ပညာရှင်တစ်စု မေးမြန်းလျှောက်ထားအပ်သော ဗုဒ္ဓဘာသာကျမ်းဂန်နှင့်စပ်သော မေးခွန်းငါးချက်ကို ဆရာတော်ဘုရားထံ လာရောက်ဆက်ကပ်လေ၏။

ထိုမေးခွန်းလွှာမှာ ပြင်သစ်ဘာသာနှင့်ရေးသားထားသဖြင့် ဘိုရှင်ကပင် ဘာသာပြန်လျှောက်ထားရလေသည်။ ပြင်သစ်ပညာရှင်တို့လျှောက်ထားအပ်သောအမေးတို့မှာ–

၁။ သားသမီးတို့၏ ကံ–ကမ္မသည် ၎င်းတို့၏မိဘများ ကံ–ကမ္မနှင့် တူ,မတူ။

၂။ မိဘက နူသည်ဖြစ်စေ၊ ရောဂါဆိုးစွဲကပ်သည်ဖြစ်စေ၊ ရူးသည်ဖြစ်စေ ထိုသူတို့မှ ပေါက်ဖွားသော သားသမီးတို့မှာ ဆေးကျမ်းပညာအရ ကူးတတ်သည်။ ရူးတတ်

---

*၁ နိုင်ငံခြားဗုဒ္ဓဘာသာသာသနာပြုအသင်းကြီး၏ အတ္ထုပ္ပတ္တိစာတမ်း။ ၁၂၇၅–ခုနှစ်။ (စာမျက်နှာ –၁၆)။

သည်ဟုဆိုကြသည်။ ကံ–ကမ္မချင်းမတူကြလျှင် မည်သည့်အတွက်ကြောင့် နူနိုင်, ရူးနိုင်, ကူးနိုင်ကြပါသနည်း။

၃။ ဝိညာဉ်သည် အတွယ်ရှိပါမှ ပြုတ်ပါသလား၊ သို့မဟုတ် မတွယ်မီအလျောက် ဖြစ်နေပါသလား၊ အစိမ်းတစ္ဆေဖြစ်သည်ဆိုကြသောစကား မှန်ပါသလား။

၄။ လူဝင်စားဟူ၍ လောကဌ်ပြောဆိုရိုးရှိကြ၏။ ဝင်စားခြင်းအကြောင်းသည် ဗုဒ္ဓဘာသာ တရားတော်တွင် သက်ဝင်ခြင်းရှိပါသလား။

၅။ အဘိညာငါးပါး– (က) ဣဒ္ဓိဝိဓ၊ (ခ) ဒိဗ္ဗသောတ၊ (ဂ) စေတောပရိယ၊ (ဃ) ပုဗ္ဗေနိဝါသ၊ (င) ဒိဗ္ဗစက္ခု– ဤငါးပါးတို့သည် မြတ်စွာဘုရားမှတစ်ပါး ရဟန္တာအစရှိသောအရိယာသာဝကများနှင့် ဆက်ဆံပါသေး၏လား။[*၁]

အထက်ပါအမေးပုစ္ဆာတို့ကို ဆရာတော်ဘုရားကြီးက နယုန်လပြည့်ကျော် ၁၀–ရက် (အေဒီ– ၂၈၊ ဇွန်လ၊ ၁၉၁၃–ခုနှစ်)တွင် တပည့်ဦးဝဏ္ဏိတကိုရေးစေပြီး ပြန်လည်ဖြေကြားပေးတော်မူ သည်မှာ–

၁။ သားသမီးတို့ကံသည် ဖခင်မိဘများ၏ကံနှင့် တူသည်လည်းရှိ၏၊ မတူသည်လည်း ရှိ၏။ တူ, မတူ ဆိုသည်ကား အားရှိ, အားမဲ့ချင်း တူ, မတူကို ဆိုလိုသည်။ ဘုရား အလောင်းသိဒ္ဓတ္ထမင်းသား၏ကံနှင့် မယ်တော်မာယာ၊ ခမည်းတော်သုဒ္ဓေါဒနမင်းကြီး တို့၏ ကံချင်းမတူကြပုံကို သက်သေထားလေ။ မျက်မှောက်ဘဝမှာလည်း အကျိုးပေး ကြပုံချင်း တူ, မတူကိုထောက်၍ သိကြလေ။[*၂]

၂။ မိဘကနူလျှင် သားသမီးတို့မှာ ကူးတတ်သည်ဆိုရာ၌ ကံချင်းမတူလျှင် မကူးနိုင် ပါမည်လားဟု မေးဖွယ်ရှိရာ အမိအဘတို့၏ ဥတုကြောင့် ကူးနိုင်၏။ ဥပမာ– ပန်းပင်ငယ်နှင့်ပြအပ်၏။ ရှေးကံဟောင်းသည် ပန်းမျိုးစေ့နှင့်တူ၏။ အမိ၏သွေးသား သည် ပန်းစိုက်ရာနယ်မြေနှင့်တူ၍ အဘ၏သွေးသားသည် ထိုမြေသို့ကျရောက်ရာ ရေနှင့်တူ၏။ သို့ဖြစ်၍ မျိုးစေ့ပင်ကောင်းသော်လည်း မြေနှင့်ရေကိုလိုက်၍ ပွင့်လာ သော ပန်း,အသီးအနှံတို့သည် ညံ့တတ်၏။[*၃]

၃။ ဝိညာဉ်သည် အတွယ်ရှိမှပင် ပြုတ်သည်။ အတွယ်မရှိမီအကြားမှာ တစ်စုံတစ်ခု သောအဖြစ်နှင့် အလွတ်ဖြစ်၍နေသည်ဆိုလျှင် အန္တရာဘဝဒိဋ္ဌိအယူမည်၏။ ထို အယူကို ဗုဒ္ဓဘာသာကျမ်းတို့က ချေဖျက်လျက်ရှိ၏။ အစိမ်းသရဲဖြစ်သည်ကိုပင် အန္တရာဘဝဖြစ်သည် အယူရှိကြ၏။ အစိမ်းတစ္ဆေကား နတ်ဘဝ၌ အယုတ်ဆုံး

[*၁] လယ်တီဆရာတော်ဘုရားကြီး၏ပြင်သစ်ပုစ္ဆာဝိသဇ္ဇနာကျမ်းနှင့် ကာလကတ္တားအသားစားမှုပုစ္ဆာ။ ဂုဏဝတီစာပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၂၈၁–ခုနှစ်။ (စာမျက်နှာ ၁–၈)။

[*၂] ယင်း။ (စာမျက်နှာ–၁)။

[*၃] ယင်း။ (စာမျက်နှာ ၁–၃)။

အညံ့ဆုံးဖြစ်သော စတုမဟာရာဇ်နတ်ဘဝပေတည်း။ ဗုဒ္ဓဘာသာကျမ်းဂန်တို့၌ 'ဝိနိပါတိကအသုရာ' ဟုခေါ်၏။*[၁]

၄။ လူဝင်စားသည် လူ့ဘဝသို့ရောက်လာကြသူအပေါင်းတို့တွင် ရှေးဘဝကိုပြန်၍ သိနိုင်သူ အနည်းငယ်မျှရှိကြ၏။ ထိုသူတို့ကို ဗုဒ္ဓဘာသာကျမ်းဂန်၌ 'ဇာတိဿရ' ပုဂ္ဂိုလ်ဟုခေါ်၏။ ပုဗ္ဗေနိဝါသအဘိညာဉ်ကိုရသော ရသေ့, ဘုရား, ပစ္စေကဗုဒ္ဓ, ရဟန္တာတို့သည် ရှေးဘဝကိုသိတတ်ကြကုန်၏။*[၂]

၅။ အဘိညာဉ်ငါးပါးတို့မှာ အရိယာသာဝကများနှင့်သာမဟုတ်၊ သမထဘာဝနာတရားကို ထမြောက်အောင် အားထုတ်နိုင်သော ပုထုဇဉ်သာဝကများနှင့်လည်းကောင်း၊ ကမ္ဘာဦးက ရှာန်ရသော သမဏ, ဗြာဟ္မဏရသေ့, ရဟန်းတို့နှင့်ဆက်ဆံပါသေး၏။ ယခုလည်း ထိုအဘိညာဉ်ငါးပါးတို့ကို ထမြောက်ပေါက်ရောက်အောင်အားထုတ်ရန် နည်းလမ်းများသည် ဗုဒ္ဓဘာသာကျမ်းဂန်တို့မှာ ထင်ရှားစွာရှိလာ၏၊ ကာယဗလ, ဝီရိယဗလ နည်းပါးကြသည်ဖြစ်၍ ယခုကာလ၌ ထိုအဘိညာဉ်ငါးပါးတို့ကို ပေါက်ရောက်သူမရှိကြလေသည်-ဟူ၍ဖြစ်ပါသည်။*[၃]

**အဌစတ္တာလီသမဝါကပ်တော်မူခြင်း**

သက္ကရာဇ် ၁၂၇၅-ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၉၁၃-ခုနှစ်၊ ဇူလိုင်လ) သို့ရောက်သောအခါ လယ်တီဆရာတော်ဘုရားကြီးသည် နိုင်ငံခြားသာသနာပြုအသင်း၏လုပ်ငန်းတို့ကို တွင်ကျယ်စွာလုပ်ဆောင်နိုင်စေခြင်းငှာ မန္တလေးမြို့ ချမ်းအေးသာစံရပ် (၂၉)လမ်းရှိ ဗုဒ္ဓသာသနာနုဂ္ဂဟဟိုက်စကူးကျောင်းကြီးမှာပင် (၄၈)ကြိမ်မြောက် အဌစတ္တာလီသမဝါကိုကပ်တော်မူခဲ့ပါသည်။

**နိုင်ငံခြားသာသနာပြုအသင်းအစည်းအဝေး**

သက္ကရာဇ် ၁၂၇၅-ခုနှစ်၊ ဝါခေါင်လပြည့်နေ့ (အေဒီ-၁၆၊ ဩဂုတ်လ၊ ၁၉၁၃-ခုနှစ်) ဖြစ်သည်။ နိုင်ငံခြားသာသနာပြုအသင်းကြီး၏ဥက္ကဋ္ဌ ဦးကျော်ရန်၏ မန္တလေးမြို့ ဆေးရိုးဝင်းရှိနေအိမ်တွင် ဒုတိယအကြိမ်မြောက် သင်းလုံးကျွတ်အစည်းအဝေးကိုဖိတ်ခေါ်ကျင်းပရာ ပေထရွှံကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီးအမှူးရှိသော ချောင်းဦးမြို့၊ ပျဉ်းမနားမြို့၊ ရွှေမြို့၊ စစ်ကွင်းမြို့၊ ကြို့ပင်ကောက်မြို့၊ ပြည်မြို့၊ အင်းစိန်မြို့၊ လက်ပံတန်းမြို့၊ မလှိုင်မြို့၊ မြောင်းမြမြို့၊ ညောင်တုန်းမြို့၊ ကြည်တောင်ကန်မြို့၊ တောင်သာမြို့၊ သာစည်မြို့၊ မင်းလှမြို့၊ မြင်းခြံမြို့၊ ဟင်္သာတမြို့၊ ကြံခင်းမြို့၊ ကျိုက်လတ်မြို့တို့မှကိုယ်စားလှယ်ဒါယကာကြီးများ အစုံအညီတက်ရောက်ကြပါသည်။

---

*[၁] ယင်း။ (စာမျက်နှာ ၃-၇)။

*[၂] ယင်း။ (စာမျက်နှာ-၇)။

*[၃] ယင်း။ (စာမျက်နှာ-၈၊ ၉)။

အစည်းအဝေးကျင်းပသောနေ့တွင် လန်ဒန်မြို့ ပါဠိကျမ်းစာအသင်းကြီးက လန်ဒန်ပါဠိဒေဝီ၏ လယ်တီဆရာတော်ဘုရားကြီးထံတော်မှ ယမိုက်ပုစ္ဆာအဖြေလွှာကိုရရှိ၍ ကျေးဇူးတင်ဝမ်းမြောက်ကြောင်းပေးစာကို ဖတ်ပြလေသည်။

လယ်တီဆရာတော်ဘုရားကြီးက တစ်ဖန်မိန့်ကြားတော်မူသည်မှာ–

'ဤကဲ့သို့ အနောက်နိုင်ငံသားတို့၏စိတ်နှလုံးရွှင်ပျကြည်နူးစွာ အဘိဓမ္မာအရာ၌ ဉာဏ်ပညာအလင်းကိုရကြသည့်ပြင် ဤအခွင့်အရေးကြီးသည် ဥရောပတိုက်တွင် နောင်အစဉ်ဥဒါန်းကြီးတစ်ခုဖြစ်ရစ်စေရန် အရှေ့နိုင်ငံနှင့်အနောက်နိုင်ငံ ဗုဒ္ဓဘာသာသာသနာတော်ကြီး မည်သည့်နှစ်, မည်သည့်သက္ကရာဇ်တွင် တစ်ပြင်တည်းရောနှောမိကြကြောင်းနှင့် သာသနာဝံသမော်ကွန်းရေးသားထားပါမည်ဟုပါရှိသည့်အချက်–

အထက်အခါက ဒုတိယအကြိမ်ရောက်လာသည့် လန်ဒန်လျှောက်လွှာမှာလည်း ဤယမိုက်အဖြေကျမ်းကို အင်္ဂလိပ်ဘာသာပြန်ဆိုပြီးလျှင် စာအုပ်ရိုက်ထုတ်၍ တစ်ကမ္ဘာလုံးနှံ့ပြားအောင် ထုတ်ပါမည်ဟူ၍ ပါရှိသည့်အချက်–

ဤအချက်များကို အများထင်ရှား သိကြားစေရန် ဤယမိုက်အဖြေကျမ်းတစ်စောင် အနောက်နိုင်ငံသို့ပေါက်ရောက်၍သွားခြင်းသည် ငါတို့နိုင်ငံခြားသာသနာပြုအရေးအခွင့်ကြီးမှာ ရှေးဦးအစပထမ အောင်မြင်ချက်ကြီးဖြစ်ပေသည်။

အချို့သောလူအများက အခြားဘာသာ သာသနာပြုအသင်းများမှာ သာသနာငွေ အကုဋေများစွာရှိကြလေသည်။ မန္တလေးနိုင်ငံခြားသာသနာပြုအသင်းက ထိုကဲ့သို့တတ်နိုင်ကြလိမ့်မတဲ့လား ပြောဆိုကြကြောင်း သိရသည်။ သာသနာဓမ္မရင်းက အနှစ်အသား တရားကောင်းတရားမွန်မရှိကြသော သာသနာများ၌ကား အပရိက္ခ ဓနဥစ္စာနှင့်ပါ ရအောင်သွေးဆောင်မြူမြှား၍ပြုကြရသည်။

ငါတို့ဗုဒ္ဓဘာသာသာသနာမှာ အဖိုးအနန္တထိုက်တန်လှသော သပ္ပုရိသဓမ္မရတနာသိုက်ကြီးဖြစ်ပေ၍ အပရိက္ခဓနဥစ္စာနှင့်ပါ ရအောင်သွေးဆောင်မြူမြှား၍ ပြုရသော သာသနာမျိုးမဟုတ်ချေ။

ပညာကိုလိုလားလိုက်စားကြကုန်သော နိုင်ငံကြီးသားတို့၏မျက်မှောက်သို့ ပေါက်ရောက်အောင် ရွက်ဆောင်ဖို့ရာမျှသာ ဓနဥစ္စာလိုချေသည်။

ယခု ငါတို့အသင်းက တစ်မူးတစ်ပဲမျှ အကုန်အကျမရှိသေးဘဲ ယမိုက်အဖြေကျမ်းတစ်စောင် ပေါက်ရောက်လေသည့်အတွက်နှင့်ပင် အနောက်နိုင်ငံတစ်လွှားသွက်သွက်လည်၍သွားသည်ကို တစ်နှစ်တခြား ကြားသိကြရကုန်လတ္တံ့–ဟူ၍ဖြစ်ပေသည်။*၁

*၁ နိုင်ငံခြားဗုဒ္ဓဘာသာသာသနာပြုအသင်းကြီး၏ အတ္ထုပ္ပတ္တိစာတမ်း။ ၁၂၇၅–ခုနှစ်။ (စာမျက်နှာ–၂၆၊ ၂၇)။

အတိုက်အခံပေါ်ထွက်လာခြင်း

လယ်တီဆရာတော်ဘုရားကြီး၏အထက်ပါမိန့်ခွန်းတော်တွင် 'မန္တ လေးနိုင်ငံခြားသာသနာပြုအသင်းက ထိုက်ခဲ့သို့ တတ်နိုင်ကြမတဲ့လား'ဟူသောစကားတော်မှာ 'ငွေကြေးရန်ပုံငွေ' ကို ဆိုလိုသည်။ နိုင်ငံခြားသာသနာပြုလုပ်ငန်းမှာ ငွေကြေးများစွာလိုသည်မှန်သော်လည်း ဆရာတော်ဘုရားကြီးကမူ 'ပညာကိုလိုလားလိုက်စားကြကုန်သော နိုင်ငံကြီးတို့၏မျက်မှောက်သို့ ပေါက်ရောက်အောင် ရွက်ဆောင်ဖို့မျှသာ ဓနဉစ္စာလိုချေသည်' ဟူ၍ ချေပစကားမိန့်ကြားတော်မူပါသည်။

ဆရာတော်ဘုရားကြီး၏မိန့်ဆိုချက် မှန်ပေသည်။ လန်ဒန်မြို့၌ ပုဒ္ဓဘာသာပါဠိစာပေ ပျံ့နှံ့အောင် ဆောင်ရွက်နေသော ပါမောက္ခဒေါက်တာရီးဒေးဗစ်အပါအဝင် ပညာရှင်ကြီးများသည် ဤလုပ်ငန်းဖြင့် မိမိတို့၏ဘဝစည်းစိမ်တိုးတက်အောင် ကြံဆောင်နေသူများမဟုတ်ပေ။ ရသမျှအကူအပံ့ဖြင့် ပါဠိစာပေ ဗုဒ္ဓစာပေပျံ့နှံ့အောင် သူတို့ကြိုးပမ်းနေကြခြင်းသာဖြစ်သည်။ ဒေါက်တာရီးဒေးဗစ်အနေဖြင့် လန်ဒန်မြို့ ပါဠိကျမ်းစာအသင်းကြီးတည်ထောင်စအခါက မည်သို့ ရုန်းကန်ခဲ့ရပုံတို့ကို ထိုအေဒီ ၁၈၈၆–ခုနှစ်၊ ၁၈၈၇–ခုနှစ်ထုတ်အသင်းစာစောင်ပါ နှစ်ချုပ်အစီရင်ခံစာတို့တွင် ဖော်ပြခဲ့ပြီးဖြစ်သည်။*၁ သို့ပါ၍ ထိုသို့ပညာရှင်မျိုးနှင့်ပူးပေါင်းလုပ်ဆောင်ရန်သော အရာ၌ ငွေကြေးသည်ပဓာနမဟုတ်၊ အသိပညာကြွယ်ဝမှု ကြံရည်ဖန်ရည်ရှိမှုတို့သာ လိုရင်းပဓာန ဖြစ်ချေသည်။

ထိုစဉ်က အင်္ဂလိပ်သတင်းစာတစ်စောင်တွင် လယ်တီဆရာတော်ဘုရားကြီး၏ နိုင်ငံခြားသာသနာပြုအသင်းထွက်ပေါ်လာသည့်အတွက် ဝမ်းမြောက်ဖွယ်ကောင်းသလိုလို အစချီထားပြီး၊ နောက်ပိုင်း၌ 'နိုင်ငံခြားသာသနာပြုရေးကိုရပ်ဆိုင်းထားပြီးလျှင် မိမိတို့နိုင်ငံအစွန်အဖျားတွင်ရှိသော တိုင်းရင်းသားတို့ ပုဒ္ဓဘာသာ၌သက်ဝင်အောင် ရှေးဦးစွာပြုလုပ်သင့်ကြောင်း၊ သို့မဟုတ်လျှင် ခရစ်ယာန်သာသနာပြုဆရာတို့က ခရစ်ယာန်တရားဖြင့် သူတို့ဘာသာဘက်သို့ သက်ဝင်ယုံကြည်အောင်သွေးဆောင်ကြလိမ့်မည်'ဟူ၍ ဝေဖန်ရေးသားကြသည်။*၂

အချို့သောပုဂ္ဂိုလ်တို့ကလည်း 'တစ်ကျွန်းတစ်နိုင်ငံသို့ သာသနာပြုလုပ်ငန်းလုပ်ဆောင်သည်ဆိုသည်မှာ သာမန်ပုဂ္ဂိုလ်တို့လုပ်ရမည့်ကိစ္စမျိုးမဟုတ်၊ အဘိညာဉ်တန်ခိုးနှင့်ပြည့်စုံသော ရဟန္တာအရှင်မြတ်များ၏ကိစ္စသာဖြစ်သည်' စသည်ဖြင့်လည်း လယ်တီဆရာတော်ဘုရားကြီး၏ နိုင်ငံခြားသာသနာပြုလုပ်ငန်းကို ဝေဖန်ခဲ့ကြသည်။*၃

အချို့ပုဂ္ဂိုလ်တို့ကမူ 'နိုင်ငံတွင်းမှာပဲအလျင်သာသနာပြုပါဦး၊ အနောက်နိုင်ငံသို့ လောကွတ်ချော်လုချည်လား'ဟူ၍လည်း လယ်တီဆရာတော်ဘုရားကြီးအား စောင်းမြောင်းပြောကြားကြပြန်သည်။*၄

---

*၁ Report for 1886. JPTS, 1886. Page ix-xv; Report for 1887. JPTS, 1887. Page ix-xiii.

*၂ မြန်မာ့အလင်းမဂ္ဂဇင်း၊ ၁၉၁၄–ခုနှစ်၊ ဩဂုတ်လ(၁၅)ရက်ထုတ်။

*၃ အရှင်အာဒိစ္စဝံသထေရ်၏ ဘာသန္တ ရလမ်းညွှန်။ မြန်မာ့ပိဋကတ်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၉၁–ခုနှစ်။ (စာမျက်နှာ ၁၉၂–၁၉၅)။

*၄ လယ်တီဦးလှပိုင်၏ ပြောကြားချက်ဖြစ်သည်။

**မစ္စတာမောင်မှိုင်း၏ဗိုလ်ငို့ကာ**

ဤသို့ လယ်တီဆရာတော်ဘုရားကြီး၏ နိုင်ငံခြားသာသနာပြုလုပ်ငန်းကိုဝေဖန်ကြခြင်းနှင့်စပ်လျဉ်း၍ ဆရာတော်ဘုရားကြီးအနေဖြင့် မည်သို့မျှအကျယ်အမိန့်ရှိတော်မူခြင်းမရှိခဲ့သော်လည်း ထိုခေတ်က သတင်းစာဂျာနယ်လောက၌ နာမည်ကျော်နေသော မစ္စတာမောင်မှိုင်းအမည်ခံ ယောဂီဆရာကြီးမောင်မှိုင်း*၁ ကမူ မိမိ၏ကလောင်စခန်းချရာ သူရိယသတင်းစာ၊ ဗိုလ်ငို့ကာအခန်း*၂ မှနေ၍ အောက်ပါအတိုင်းဖြေရှင်းရေးသားခဲ့ပါသည်။

'ယခုအခါ မန္တလေးရွှေမြို့တော်တွင် အရှင်လယ်တီဆရာတော်ဘုရားကြီး ကြီးမှူး၍ အထူးတည်ထောင်အောင်မြင်ထမြောက်လျက်ရှိသော 'နိုင်ငံခြားသာသနာပြုအသင်းကြီး' နှင့်စပ်၍ သတင်းအမျိုးမျိုးကိုဖတ်ရှုရာ၊ အားရဝမ်းနည်း နှစ်ကွဲ ကွဲလျက်ရှိသည်ကိုတွေ့ရ၏။

ထိုသို့တွေ့ရသော်လည်း ကျုပ်တို့ဆန္ဒမှာဖြင့် ထ,မြောက်စေချင်၏။ ဖြစ်စေချင်၏။ အရှေ့ခြမ်း, အနောက်လုံးခြမ်းတည်းဟူသော အလုံးကြီးနှစ်ကွဲကို တစ်လုံးတစ်စည်းတည်းဖြစ်စေချင်၏ (ဝါ) မကွဲမပြား ဘုရားဗုဒ္ဓ၏တပည့်တော်တွေချည်းဖြစ်စေချင်၏'–ဟူသောစကားအစဉ်ကို နိဒါန်းဆင်ပြီးလျှင် အောက်ပါ နိုင်ငံခြားသာသနာပြုလေးချိုးကြီးကို ရေးသားထားပါသည်။

**မစ္စတာမောင်မှိုင်း၏နိုင်ငံခြားသာသနာပြုလေးချိုး**

သာသနာတဝက်သီသီနင်းကာမှ၊ ကမ္ဘာမှာစက်ခြည်လင်းစေဘို့ သည်အသင်းအချိန်ကြပြီလို့၊ နှလုံးဝယ်ရည်၊ (မရွှေတင့်ရယ်) ထေရ်သနင်းမဟိန္ဒလိုပ– ဘုန်းလယ်တီ။

(သြော်) ဘုရားပဲစူးပါစေ့၊ ကြားဖူးပေ သည်တခါပ၊ ပြည်မြန်မာမှာ ထွန်းလာရတာက၊ အင်မတန်လွမ်းစရာ့ဘဝပေပ၊ အင်္ဂလန်ကျွန်းသာစွဆီသို့ ဗုဒ္ဓသာသနာရောင်နှင့် ဓမ္မဖောင်မာလီန်မှူးပေမို့၊ ထူးမပေါ့ပဝေဏီမှာနော်ကွယ်၊ ကူးချေတော့ပြီ။ ကန်တော့ဆင်ပဏာသရပါတဲ့၊ ဂျော့ဘုရင်နရာသဘတောင်မှ၊ ထာဝရကိုတဲ့ခိုမမှီ၊ (အို) ပြဟ္မစိုရ်တည်ပါစေလို့ စိတ်မှာခဲ၊ (မွန်းတောင်သူရေ) နဂိုရ်ဝသီမှာဖြင့် မိစ္ဆာတလွဲ။

လူတမ်းမှာ၊ ဥဒါန်းတမည်သာဖို့ သည်တခါ အကြဲနိုပ်လိုက်တာက၊ ပြည်မြန်မာတမ္ဘဒိပ်တွင်မှ၊ တောင်ထိပ်ရွှေဒုမ္မာနှင့်၊ သူရိယာသြဘာစက်ဟာက၊ ဇမ္ဗူလှည့်ကာဂေါယာကထွက်သလိုပ၊ ဖိုလ်မင်္ဂသယ်မည်ပြင်တဲ့၊ လယ်တီအရှင်မှာ ရဟန္တာကလဲ မဟုတ်တာကြောင့်၊ နယ်ပြည်တခွင်မှာ ကျမ်းစာအုပ်တွေနှင့်၊ (အမယ်မင်း) ကမ်းကာလှမ်းကာထုတ်ရပေသပေါ့၊ လုပ်သမျှအရာရာစွဲစေဖို့၊ ယမ်းကာ, သမ်းကာ ရှုပ်ကြ

*၁ နောင်အခါ မျိုးချစ်စာဆိုဆရာကြီးသခင်ကိုယ်တော်မှိုင်း(အေဒီ ၁၈၇၆–၁၉၆၄)ကိုဆိုလိုသည်။

*၂ ဆရာကြီးသခင်ကိုယ်တော်မှိုင်းသည် ဗိုလ်ငို့ကာအခန်းကို ၁၉၁၃–ခုနှစ်၊ ဖေဖော်ဝါရီလ (၁၈)ရက်မှ ၁၉၁၄–ခုနှစ်၊ မတ်လ (၂၄)ရက်အထိ သူရိယသတင်းစာတွင် ဆောင်းပါးစုစုပေါင်း(၂၉)ပုဒ်ကို ရေးသားခဲ့ပါသည်။

လျှင်ဖြင့်၊ ဒုက္ခမဟာငရဲပါကွဲ့၊ (မပြုံးကြည့်ကလေးရယ်) နန်းအမတာကုပ်ရအောင်ပ၊ ကျုပ်နှမ သဒ္ဒါမနဲလေနှင့်နော်၊ (မကြေးမုံရေ) မန်းရတနာစမုတ်ဆီက ဗုဒ္ဓသာသနာကဘဲ။

ဤသို့ လယ်တီဆရာတော်ဘုရားကြီး၏ နိုင်ငံခြားသာသနာပြုအသင်းကြီး၏ကောင်းကြောင်းကို ချီးမွမ်းရေးသည့်အတွက် မိမိ(မစ္စတာမောင်မှိုင်း)ကို 'လယ်တီမောင်မှိုင်း'ဟု အခေါ်ခံချင်၍လော၊ သို့တည်းမဟုတ် 'ဆင်ဖြူတော်မှီ ကြံစုပ်ချင်၍လော'ဟုထင်ပါက ဤသို့သောအကြောင်းမျိုးကြောင့်မဟုတ်ရပုံကိုလည်း အောက်ပါအတိုင်း ရှင်းလင်းရေးသားထားပြန်ပါသည်။

ကျွန်ုပ်သည် လယ်တီဆရာတော်ဘုရားကို မျက်ဝါးတတ်အပ် ဆည်းကပ်ရဖူးသည်လည်းမဟုတ်၊ ဗုဒ္ဓဘာသာမြန်မာတိုင်းရင်းသားတို့အား တရားသဖြင့် ကောင်းခွင့်ကောင်းရာ ဒေသနာတော်တည်းဟူသောထီးကိုဖွင့်၍ ချီးပင့်တော်မူသောကြောင့်လည်းကောင်း၊ မြန်မာလူမျိုးတို့၏အစုအစဉ် ရာဇဝင်မော်ကွန်းတို့၌ ပေါ်ထွန်းတွေ့ရှိရသော ဆရာတော်သံဃာတော်အဆက်ဆက်တို့လက်ထက်နိုက် အိပ်မက်မျှမမက်တန်ရာသော ဥရောပနိုင်ငံခြားကိုတောင်ပင် ရှင်တော်ဘုရား၏သာသနာကို ကမ္ဘာလုံးကြီးနှင့် တစ်ပါတည်းလိမ့်၍ပါသလို သိမ့်သိမ့်ခါအောင်ရွက်ဆောင်တော်မူပေသောကြောင့်လည်းကောင်း မကြားစဖူး ထူးထူးဆန်းဆန်း အံ့မခန်းမှု၍လူ့တမ်းတဆောင်၊ ဥဒါန်းပြောင်အောင်၊ ဇမ္ဗူဘောင်ကျွန်းတခေတ်နိုက်၊ လွမ်းရစ်ဖို့ မှုပမာတည်သဖြင့် 'လူအာဇာနည်၊ မဟာထေရ်၊ ဉာဏ်ခြည်မသန်းမြွေး'ဟူသည်နှင့်အညီ တရထည်တည်းကျသောကြောင့်လည်းကောင်း ဇင်းကျိုက်တောင်ရှိုရိုးကဖိုထိုးရင်း ကြည်ညိုမိပါ၏-ဟူလို။

ထိုမှတပါး အာသီသထားမိသည်မှာ ကျွန်ုပ်တို့မှာ ဗုဒ္ဓဘာသာဖြစ်ကြသော်လည်း ကျွန်ုပ်တို့၏ကန်တော့ပူဇော်ရာ ကျေးဇူးရှင် ဂျော့ဘုရင်မင်းမြတ်မှာမူကား မိစ္ဆာဝါဒထာဝရအယူဖြစ်တော်မူရာ ဗုဒ္ဓဘာသာသာသနာကိုရသဖြင့် ထာဝရကိုမခိုမမှီဟူ၍ နဂိုရ်ဝသီကိုပယ်ပြီးလျှင် ပြဟ္မစိုရ်တည်လွယ်ပါစေသတည်း-ဟူ၍လည်း ဇင်းကျိုက်ခေါ် တောင်တန်းက ရှောင်ဖမ်းရင်းဆုတောင်းမိပါ၏' -စသည်ဖြင့်ရေးသားခဲ့ပါသည်။

တစ်ဖန်ဆက်၍ မစ္စတာမောင်မှိုင်းသည် သတင်းစာဆရာတစ်ဦးပီပီ လယ်တီဆရာတော်ဘုရားကြီး၏ နိုင်ငံခြားသာသနာပြုအသင်းကို သူကြားသိထားသမျှသတင်းများနှင့်ဆက်စပ်ပြီး ရေးသားထားပြန်သည်မှာ-

'ငှင်းပြင်တကွေ့ ရှေ့သို့ကွန့်မြူး၍ အထူးဆိုလိုပြန်သည်မှာ သာသနဒါယကာ မြန်မာမင်းစစ် ကေရာဇ်မှာ ဆိုးညစ်ဖန်လာ ကံကြမ္မာကြောင့် မြန်မာပြည်ထီးနန်းစွန့်ပြီးလျှင် အဓွန့်ပ၀းကွာ ရတနာဂီရိနန်းသို့ ကွန့်မြန်းစမ္ပာယ်တော်မူရသော်လည်း

ကျွန်ုပ်တို့သူ့ငါမှာ ပူစရာမဟုတ်၊ ကျုပ်တို့သူ့ငါမှာ ထီးရှုံး၍ တပြည်လုံး ငွမ်းထိုး မှောက်ခုံဖြစ်ပြီး ကျန်ရစ်ခဲ့ရခြင်းသာလျှင် အရင်းမူလ ပဓာနအစစ် ဓာတ်နှစ်သတ္တု ကြီးဖြစ်၍ စင်စစ်မှာ ယခုအုပ်ချုပ်တော်မူသော အရှင်အင်္ဂလိပ် မင်းစိုးရာဇာတို့ သာလျှင် မြန်မာလူမျိုးတို့၏ မိကောင်းဘကောင်း ဆရာကောင်းပမာ အရာရာလေ မျိုး မညိုးမငယ် ဖွယ်ဖွယ်ရာရာလိမ္မာယဉ်ကျေးရှိအောင် ရွက်ဆောင်ပြုစုတော်မူပါ ပေသည်။

အရှင်အင်္ဂလိပ်ဘုရင်မင်းမြတ်သည် အကယ်၍ ဗုဒ္ဓဘာသာဖြစ်ပါလင့်တပြီး ကား ယခုလို နိုင်ငံခြားသာသနာပြုပွဲကြီးကို နွဲချီးသဘင် ဆင်ယင်သောကိစ္စတွင် အမရပူရ မြန်မာ့ဥကင် ဘုရင်ဘိုးတော်မင်းတရားကြီးလက်ထက်တော်အခါ လင်္ကာဒီပ သီဟိုဠ်ကျွန်းသို့ သာသနာပြုသကဲ့သို့ငှင်း၊ ပါဠိလိပုတ်ပြည့်ရှင် ဘုရင်သီရိဓမ္မာ 'သောကမင်းတရားသည် သားတော်ရှင်မဟိန္ဒ၊ သမီးတော်သင်္ဃမိတ္တာထေရီမတို့နှင့် သီဟဠလင်္ကာသို့ သာသနာပြုသကဲ့သို့ငှင်း၊ သထုံက ရဟန္တာရှင်အရဟံသည် ပုဂံသို့ သာသနာကိုပို့သောအခါ အနော်ရထာမင်းတရားသည် များများ ကြည်ညို သကဲ့သို့ငှင်း၊ အကြောင်းအားလျော်စွာ ဖြစ်တန်ရာ၏တကားဟု ရှေးဖျားမဆွ ခါသမယက သာသနဒါယကာ အဆိုပါမင်းတရားတို့ ရွှေရှားတဖန် ကွယ်ချုပ်ပြန်၍ နတ်ထံသို့ပြောင်းရွှေ့ကြသည်ကိုလည်း အောက်မေ့တသ လွမ်းဆွတ်မိပါ၏-ဆိုလို သည်။

ထိုဆိုလိုသည်ဟူသော ဆရာမှိုင်း၏စကားတွင် 'ရှင်မဟိန္ဒတို့ ရှင်အရဟံတို့ သာသနာပြုစဉ်က ယခုလိုပဲ ချောင်းဦးက ၅၀ဝိ၊ မုံရွာက ၁၀၀ဝိ၊ ရွှေတောင်က ၅၀ဝိ-စသည်ဖြင့်လှူဒါန်း၍ ကမ်းလှမ်းရန် စာအုပ်များထုတ်ဝေ ပြန့်နှံ့စေသလော'ဟု စောကြောမေးမြန်းအံ့။ အဆိုပါ ရဟန္တာရှင်မဟိန္ဒတို့ ရှင်အရဟံတို့မှာ ဈာန်တန်ခိုးဖြင့် မိုးကောင်းကင်ကပျံနိုင်ခြင်းစသော တန်ခိုးတော်များရှိသည့်ပြင် ရေမြေရှင်ဘုရင် ဥက္ကဋ္ဌများကလဲ ဗုဒ္ဓအယူကို ကြည်ဖြူလေးမြတ်တော်မူကြသည် တကြောင်း၊ ၎င်းပြင် ထိုရွှေတောင်စသောမြို့များ ပေါ်သေးမည်မထင်၊ ထို့ပြင် ပုံနှိပ်တိုက်များလည်း ရှိကြောင်းနှင့် ရှေးဟောင်းမော်ကွန်းကျောက်စာတို့၌ မလာမရှိဖြစ်သည်(ဝါ)ပုံနှိပ်တိုက် ပေါ်သည်မှာ မကြာသေးဟုဆိုလိုသည်။

သို့ဖြစ်ပါ၍ အခါကာလ ဒေသစရိုက် ခေတ်ကိုလိုက်၍ အကြိုက်သင့်ရာ ပြုလုပ်ရမှုမျိုးကို ညှိုးသိုမျက်မာန် ရန်မထောင်သင့်။ အခွင့်အလျောက် အနောက်နိုင်ငံ သိုးဆောင်းတို့၏ လမ်းကြောင်းနည်းသစ်ဖြင့် ခေတ်အားလျော်စွာ နိုင်ငံခြားသာသနာ ပြုခြင်း ဖြစ်တန်ရာ၏'-ဟူ၍ ရှင်းလင်းရေးသားပါသည်။

မစ္စတာမောင်မှိုင်း ဆက်လက်ပြီးရေးပြန်သော သာသနာပြုအသင်းလေးချိုးကြီးတစ်ပုဒ် မှာ အောက်ပါအတိုင်းဖြစ်သည်။

'သာသနာ့ဒါယကာ တပြေမြန်းရှာလျက်ပေမဲ့၊ အာကအညာ ရွှေနန်းရတနာ ကနက်ဆီက၊ မြန်မာမျှာ့ဘာသာ အသရေလျှမ်းကာတက်စေဖို့၊ ငွေအစွမ်းအသပြာ ထွက်လေရဲ့ တခြားနယ်၊ (ကျော်ရွှဲ့ရယ်) ပြေမန်းရတနာပျက်ပေမဲ့ အားမငယ်။

ဇာတိအာဏာ လောကတခွင် အတွင်းတွင်ဖြင့်၊ သာကီရတနာ စောနရ အရှင်သနင်းပေပ၊ ပါဠလီရာဇာ သောကာဘုရင်မင်းရယ်တို့၊ သားရင်းမဟိန္ဒာနှင့် မယ်မိတ္တာသဃာထေရ်တို့ကြောင့်၊ လင်္ကာမြေသီဟိုဠ်ကျွန်းတွင်မှ၊ သာသနာခုတိုင် ထွန်းပါရဲ့၊ ယွန်းသည့်မဟာနွယ်တွေကိုဘုရာ့ လွမ်းမိပါတယ်။

ကာလမလေ နေရာကလဲကြတာကြောင့်၊ သာသနအမွေ တပြေတရွှာသို့ သ,ပေမဲ့၊ သတ္တဝါမျှာ့အခြေ စေတနာဆွပါလို့၊ ငွေအသပြာနေကိုတဲ့ ရိပ်မနွယ်၊ (အို) မချိတ်မတွယ်ပေဘ ထိုရော်တခန်း၊ (ဆရာတင့်ရယ်) သပိတ်လွယ်ပါလို့ ကိုယ်တော်မြန်း။

ရွှေဆုငယ်ညွှန်၊ ရွှေသုဝဏ်တောင်သူပြေမှ၊ မှောင်မြူရွှေ တရားဓမ္မပြမယ်လို့၊ အခေါင်ဆူမဟေ ဘုရားသာသနာသ,စဉ်က၊ တောင်သူရေ–အလားပမာ ဆ,လျှင်ဖြင့်၊ မြန်မာ့နယ်ပြည်ပုဂံသို့၊ ထေရ်အရဟံ ကိုယ်တော်ကူးသလိုပ၊ တိမ်ယင်နဘံ အခြေ မလေ၊ အဘိညာဉ်ဈာန်တွေနှင့်လဲမမြူးနိုင်လို့၊ ဒေါင်းမှိန်စဉ် ခေါင်းရိုန်နှင့် နူးရမယ် ကွယ်၊ (အမယ်မင်း) အထူးကွန့်ပါလို့ ဗိုလ်ဟန်ပါပါဆန်းကြရပေမပေါ့၊ (သြော်) လူးလူးလွန့်လွန့်နှင့် ထိုထိုအကြံမှာ မန်းပါကွဲ့၊ (မယ်တင့်ရယ်) အဖူးအညွှန့် ဗဟိုရ်မန္တ လာကြငှန်း–ဟူ၍ဖြစ်သည်။ *၁

ဖော်ပြခဲ့အတိုင်း လယ်တီဆရာတော်ဘုရားကြီးဦးစီးသော နိုင်ငံခြားသာသနာပြုအသင်း ကြီးအား ဝေဖန်ပြောဆိုနေကြသည်ကို မစ္စတာမောင်မှိုင်းကလည်း သတင်းစာဆရာတစ်ဦး အနေဖြင့် တာဝန်ကျေပွန်စွာဖြင့် အများဗုဒ္ဓဘာသာဝင်ပြည်သူတို့ အမှန်တရားသိကြစေရန် ထုတ်ဖော်ရှင်းလင်းပြခဲ့သည်။ ထိုသောအခါ ဗုဒ္ဓဘာသာဝင်လူထုကြီးသည် ဆရာတော်ဘုရားကြီး၏ ရွက်ဆောင်ကြိုးပမ်းချက်ကို အားရဝမ်းမြောက် ကြည်ညိုကြသည်ဖြစ်၍ မည်သည့်ဝေဖန်မှုကိုမျှ အရေးမထား၊ အလှူတော်ငွေတဖျောဖျောထည့်ဝင်လာကြသည်မှာ သက္ကရာဇ် ၁၂၇၅–ခုနှစ်၊ သီတင်းကျွတ်လဆန်း ၄–ရက် (အေဒီ–၃၊ အောက်တိုဘာလ၊ ၁၉၁၃–ခုနှစ်)၌ ငွေထိန်းလူကြီး ဦးဘိုးရင်၏ လက်တွင် ငွေပေါင်းကျပ်–၈၈၁၂၊ ၇–ပဲ၊ ၃–ပိုင် လက်ခံရမိလေ၏။ ထိုငွေတို့ကို အမှုဆောင်လူကြီးများက ဘဏ်တွင်အပ်နှံထားပြီး အတိုးအညွှန့်သာထုတ်ယူသုံးစွဲမည်ဟု ဆုံးဖြတ် လျက် မန္တလေးမြို့ အထက်မြန်မာပြည်ဗဟိုဘဏ်လီမိတက်၌ အပ်နှံထားရှိခဲ့ကြပါသည်။

*၁ မစ္စတာမောင်မှိုင်း၏ ဗိုလ်ဋီကာ။ (စာမျက်နှာ ၁၀၉–၁၁၇)။



လယ်တီဆရာတော်ကြီးအား ရေနံချောင်းမြို့သူမြို့သားတို့က
ခမ်းနားကြီးကျယ်စွာကြိုဆိုနေကြပုံ

ရေနံချောင်းတရားပွဲကြီး

လယ်တီဆရာတော်ဘုရားကြီးသည် ရေနံချောင်းမြို့က နယ်ပိုင်ဝန်ထောက်မင်း မောင်ဘိုးရုံ၊ မြို့အုပ်မောင်အုန်းရွှေ၊ မောင်ဘေ၊ မောင်သာရကြီး၊ မောင်မောင်ကြီးစသော ရေနံတွင်းရိုးတွင်းစား ဒါယကာကြီးများ၏လျှောက်ထားချက်အရ သက္ကရာဇ် ၁၂၇၅–ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၉–ရက်၊ ကြာသပတေးနေ့ (အေဒီ–၆၊ နိုဝင်ဘာလ၊ ၁၉၁၃–ခုနှစ်)တွင် ရေနံချောင်းမြို့သို့ကြွတော်မူပါသည်။ ရေနံချောင်းမြို့၏အရှေ့ဘက်ရှိ ရွှေမင်းဝန်ကျောင်းတိုက်[*၁]အတွင်း မဟာမဏ္ဍပ်ဓမ္မသဘင်ဆင်ယင်ပြုလုပ်ကာ ဆရာတော်ဘုရားကြီးသီတင်းသုံးတော်မူရန် အစီအစဉ်များပြုလုပ်ထားကြ၏။

ဆရာတော်ဘုရားကြီးသည် ရေနံချောင်းမြို့တွင် တန်ဆောင်မုန်းလဆန်း ၉–ရက်နေ့မှစ၍ လပြည့်ကျော် ၃–ရက်နေ့တိုင် (အေဒီ–၆၊ နိုဝင်ဘာလ၊ ၁၉၁၃–ခုနှစ်မှ ၁၅၊ နိုဝင်ဘာလ၊ ၁၉၁၃)အထိ အောင် ညစဉ်တရားပွဲကြီးများကျင်းပလျက် သရဏဂုံသီလတရား၊ သမထဝိပဿနာဘာဝနာတရား၊ နွားသား,ကျွဲသားရှောင်ကြဉ်ရေးတရား၊ ယစ်မျိုးငါးပါးရှောင်ကြဉ်ရေးတရား၊ အနောက်နိုင်ငံသို့ဗုဒ္ဓသာသနာပြန့်ပွားရေးတရားတို့ကိုဟောကြားတော်မူသဖြင့် ထိုတရားပွဲပြီးဆုံးသောည အထိ ကျွဲနွားမစားမသောက်ပါဟု လှူဒါန်းလာသူပေါင်း ၅၅၀၀၊ ယစ်မျိုးငါးပါးရှောင်ပါမည်ဟု ကတိခံလာသူပေါင်း ၁၉၀၀၊ ကြက်,ဝက်လှူဒါန်းလာသူပေါင်း ၁၅၀၀၊ အခြေလေးချောင်းနှင့် ကုန်းသတ္တဝါအသားတို့ကိုမစားပါဟု လှူဒါန်းလာသူပေါင်း ၂၀၀– စာရင်းရရှိခဲ့ပေ၏။ နိုင်ငံခြားသာသနာပြုအသင်းအတွက် လှူဒါန်းငွေ ၄၀ရ၁–ကျပ် ၈–ပဲကိုလည်း လက်ခံရရှိခဲ့ပါသည်။

ရေနံချောင်းမြို့တွင် သံခိပ်အသင်းမရှိသေးသဖြင့် ဆရာတော်ဘုရားကြီးက ယောကျ်ားကလေး၊ မိန်းမကလေး(၅၀၀)ခန့်တို့ကို ပရမတ္ထသံခိပ်စာအုပ်ငယ်များ ဝေငှကျက်မှတ်ကြစေပြီး သံခိပ်အသင်းကို ဖွဲ့စည်းတည်ထောင်ပေးတော်မူပါသည်။[*၂]

ထောင့်ကြီးတရားပွဲ

ရောဝတီတိုင်း၊ ဟင်္သာတမြို့နယ် ဇလွန်မြို့အပိုင် ထောင့်ကြီးရွာက မောင်သာဒွန်းဦး၊ မောင်သူကြီးငယ်၊ မောင်မိုး (ပဋိစ္စသမုပ္ပါဒ်နည်းပြဆရာ)၊ မောင်ဘိုးယု (ယောကျ်ားကလေး သံခိပ်ဆရာ)၊ မောင်တလုတ် (မိန်းကလေးသံခိပ်ဆရာ) တို့က သာသနာပြုကြွတော်မူပါရန် အသနားခံလျှောက်ထားကြသည့်အတွက် လယ်တီဆရာတော်ဘုရားကြီးသည် ကြခင်းမီးရထား

---

*၁ ရွှေမင်းဝန်မင်းကျောင်း ပထမဆရာတော်ကြီးသည် လယ်တီဆရာတော်ဘုရားကြီးနှင့် မန္တလေးမြို့စံကျောင်းတိုက်၌ စာသင်ဖက်မိတ်ဆွေဖြစ်တော်မူပါသည်။ ထိုရွှေမင်းဝန်ကျောင်းကြီးသည် ရှေးအခါက ရေနံချောင်းမြို့ရှိ တွင်းစားများကိုးကွယ်သဖြင့် အလွန်ကြီးကျယ်၍ ကျောင်းပရိဝုဏ်အတွင်း ဘုရားပုထိုးများစွာ၊ ကျောင်းကန်များပါဝင်သော ရာမကျောင်းကြီးဖြစ်သည်။ အင်္ဂလိပ်အစိုးရလက်ထက် ကျောင်းမြေ၏အလယ်မှဖြတ်ကာ လမ်းဖောက်လိုက်သည့်အတွက် မူလရွှေမင်းဝန်ကျောင်းတိုက်ကြီးမှာ အစိတ်စိတ်အမွှာမွှာကွဲပြားသွားခဲ့ရသည်။ ထို့ပြင် ဒုတိယကမ္ဘာစစ်အတွင်းက ဗုံးကျသဖြင့် မူလရွှေမင်းဝန်ကျောင်းတိုက်ကြီး ပျက်စီးသွားခဲ့ရပါသည်။

*၂ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ ၁၄၁–၁၄၇)။



ရေနံချောင်းမြို့၊ရွှေမင်းဝန်ကျောင်းတိုက်မုခ်ဦး



ပထမရွှေမင်းဝန်ဆရာတော်



လယ်တီဆရာတော်ကြီးခေတ္တသီတင်းသုံး၍တရားဟောတော်မူသော ရေနံချောင်းမြို့၊ ရွှေမင်းဝန်ကျောင်းတိုက်ကြီး

လမ်း ထူးကြီးဘူတာမှတစ်ဆင့် ဟသ်ာတမြို့သို့ကြွတော်မူပါသည်။ ဟသ်ာတမြို့၌ခေတ္တနား နေခိုက် ထောင့်ကြီးရွာသားတို့က ကရဝိက်ဖောင်ကြီးများဖြင့် ဟသ်ာတမြို့သို့အပင့်လာကြရာ ၁၂၇၅–ခုနှစ်၊ နတ်တော်လဆန်း ၆–ရက် (အေဒီ–၃၊ ဒီဇင်ဘာလ၊ ၁၉၁၃–ခုနှစ်)တွင် ဆရာ တော်ကြီးလိုက်ပါလာသော ကရဝိက်ဖောင်ကို ဆွဲလှေများစွာဆွဲယူခြင်းဖြင့် ထောင့်ကြီးရွာသို့ ဆိုက်ရောက်ခဲ့ပါသည်။

ထောင့်ကြီးရွာဆိပ်ကမ်းတွင် သံဃာအပါး(၁၀၀)၊ သံခိပ်အသင်းသားအသင်းသူများ၊ ပဋ္ဌိစ္စသမုပ္ပါဒ်အသင်းသူအသင်းသားများ၊ အဘိဓမ္မာဝတ်အသင်းများစွာတို့အပါအဝင် လူပရိသတ် (၄၀၀၀)ခန့်က တူရိယာငါးပါးအစုံအလင်နှင့် ကြိုကျယ်ခမ်းနားစွာကြိုဆိုကြပါသည်။ ထိုဆိပ်ကမ်းရှိ ကွန်းထောက်အပန်းဖြေမဏ္ဍပ်ကြီးတွင် ဆရာတော်ဘုရားကြီးအား ခေတ္တအပန်းဖြေစေပြီးလျှင် စံကျောင်းတော်အရောက် ထည်မျိုးအုပ်မျိုးတို့ခင်းကျင်း၍ ပင့်ဆောင်လာကြရာ ထိုနေ့ညနေ လေးနာရီမှ ခေတ္တသီတင်းသုံးတော်မူရာ ယာယီစံကျောင်းတော်သို့ရောက်တော်မူရသည်။

ဆရာတော်ဘုရားကြီးသည် ထောင့်ကြီးရွာသို့ဆိုက်ရောက်တော်မူသော ပထမညမှာပင် တရားပွဲကျင်းပစေပြီး ဗုဒ္ဓဘာသာလူမျိုးတို့ ပေါ့ပေါ့ဆဆမနေကြစေရန် အပ္ပမာဒနှင့် ပမာဒ တရားတော်ကြီးကို အကျယ်ဟောကြားတော်မူပါသည်။

တရားပွဲ၏ဒုတိယည၌ နိုင်ငံခြားသာသနာပြုအသင်းအကြောင်းပါသော ဗုဒ္ဓဘာသာ နာနလံထတရားတော်ကိုဟောကြားတော်မူပါသည်။

တရားပွဲ၏တတိယည၌ ကမ္မာအလင်း,သံသရာအလင်း, ဗုဒ္ဓဘာသာအလင်းတရားတော်ကို ဟောကြားတော်မူပါသည်။

တရားပွဲ၏စတုတ္ထည၌ သီလတရားတော်ကိုဟောကြားတော်မူပါသည်။

တရားပွဲ၏ပဉ္စမည၌ အနိစ္စ,ဒုက္ခ,အနတ္တလက္ခဏာရေးသုံးပါးတရားတော်ကို ဟောကြား တော်မူပါသည်။

တရားပွဲ၏ဆဋ္ဌမည၌ ဝိဇ္ဇာ,စရဏတရားကိုဟောကြားတော်မူပါသည်။

တရားပွဲ၏သတ္တမည၌မူ သံခိပ်အသင်းသူအသင်းသား ၆၀၀၊ ပဋ္ဌိစ္စသမုပ္ပါဒ်အသင်းသူအသင်း သား ၄၅၀၊ အဘိဓမ္မာဝတ်အသင်းသား ၁၅၀ တို့၏ပူဇော်ကန်တော့ခြင်းကိုခံယူတော်မူပြီး သြဝါဒ ကထာဆုံးမစကားကို မိန့်မြွက်တော်မူပါသည်။

နတ်တော်လဆန်း ၁၃–ရက်နေ့ နံနက်တွင်ကား ကျေးဇူးရှင်လယ်တီဆရာတော်ဘုရား ကြီး၏ သက်တော်(၆၇)နှစ်ပြည့်မွေးနေ့နှင့် တိုက်ဆိုင်နေရကား၊ ဆရာတော်ဘုရားကြီး၏မွေးနေ့ သဘင်အဖြစ် ခမ်းနားစွာကျင်းပကြသည်မှာ ဆရာတော်ဘုရားကြီးသက်တော်အတိုင်း ဆွမ်း, သစ်သီး,ယိုအမျိုးမျိုး,ပန်း,ရေချမ်းတို့ကိုပြုလုပ်၍ ဆွမ်းတော်ကြီးတင်ပွဲဆင်ယင်ကြ၏။ ဆရာတော် ဘုရားကြီးအားလည်း မြို့တွင်းသို့လှည့်လည်ပြီး ဆွမ်းခံလှည့်လည်ကြွတော်မူရန် ပင့်ဆောင်ခဲ့ကြပြီး ရပ်ကွက်အလိုက် ခမ်းနားစွာပူဇော်ကြ၏။

ထိုမြို့မှပင် နိုင်ငံခြားသာသနာပြုအသင်းကြီးအတွက် အလှူငွေ ၃၅၀၀–ကျပ်၊ ၁၅–ပဲ၊ ၆–ပြားကို ဆရာတော်ဘုရားကြီး၏လက်တော်အရောက်ဆက်ကပ်လှူဒါန်းကြပြီး နွားသား၊ ကျွဲသား လှူဒါန်းကြသူ (၅၃၃၀)ဦး၊ ယစ်မျိုးလှူသူ(၁၂၃၀)ဦး၊ လောင်းကစားလှူသူ(၁၁၅၀)ဦးတို့၏ စာရင်းကိုပါ ဆက်ကပ်ကြပါသည်။*၁

ဇလွန်မြို့တရားပွဲ

သက္ကရာဇ် ၁၂၇၅–ခုနှစ်၊ နတ်တော်လဆန်း ၁၅–ရက် (အေဒီ–၁၂၊ ဒီဇင်ဘာလ၊ ၁၉၁၃–ခုနှစ်)တွင် လယ်တီဆရာတော်ဘုရားကြီးသည် ဇလွန်မြို့က ရာဇဝတ်အုပ် မောင်အုန်းခင်နှင့် တရားမမြို့အုပ်ဦးဆိုင်တို့ လာရောက်ဆက်ကပ်ကြသည့်–

'အရှင်ဆရာတော်မြတ်ဘုရားကြီး၏ ရွှေမျက်နှာတော်ကို ဖူးမြော်ပူဇော်လိုပါသည်တစ်ကြောင်း၊ မြတ်စွာဘုရား၏ကိုယ်တော်စား အရှင်ဆရာတော်ဘုရား၏ ဟောကြားတော်မူအပ်သော တရားတော်မြတ်ကို ကြားနာမှတ်သားလိုသည်တစ်ကြောင်း၊ အရှင်ဆရာတော်ဘုရားကြီးနှင့်တကွ ဗုဒ္ဓမြတ်စွာသာသနာတော်ကြီးကို ချီးမြှောက်ပူဇော်လိုသည်တစ်ကြောင်း ထိုအကြောင်းများကိုထောက်ထား၍ သနားတော်မူ၍ ခရီးတော်ကြုံကြိုက်သည့်အခါ ဇလွန်မြို့ဒေသသို့ ကိုယ်တော်တိုင်ကြွရောက်ချီးမြှောက်တော်မူပါမည့်အကြောင်း ရှိခိုးလျှောက်ထား သနားတော်မြတ်ခံကြပါသည် ဘုရား'–

ဟူသော ပင့်လျှောက်စာအရ ဆရာတော်ဘုရားကြီးသည် မိမိကိုယ်ခန္ဓာ၏ပင်ပန်းနွမ်းနယ်မှုကိုပဓာနမထားနိုင်ဘဲ ထောင့်ကြီးမြို့မှ လေးမိုင်ခန့်ဝေးကွာသော ဇလွန်မြို့သို့ အကြိုထောက်လာသော ဒကာတို့၏ထမ်းစင်ဖြင့်ကြွရောက်တော်မူရာ ယင်းနေ့ နေ့ ၁၂–နာရီအချိန်တွင် ဇလွန်မြို့ပြည်တော်ပြန်ဘုရားကြီးတန်ဆောင်းမျက်နှာစာ ဓမ္မာရုံဘေး၌တည်ဆောက်ထားသော အလျား ၈၅–တောင်ရှိ အတိဒီဃစင်္ကမရတနာမဟာစင်္ကြံကျောင်းတော်သို့ ဆိုက်ရောက်တော်မူပါသည်။

ထိုဇလွန်မြို့၌ တရားပွဲကျင်းပရာတွင် လယ်တီဆရာတော်ဘုရားကြီးသည် တရားပွဲ ပထမညနှင့် ဒုတိယညတို့တွင် အနတ္တတရား၊ တတိယညနှင့် စတုတ္ထညတို့တွင် ဗုဒ္ဓဘာသာ နာလန်ထတရား၊ ပဉ္စမနှင့် ဆဋ္ဌမညတို့တွင် အလင်းတရားတို့ကို ဟောကြားဆုံးမတော်မူပါသည်။

ညစဉ်တရားပွဲများ၌ နိုင်ငံခြားသာသနာပြုအသင်းကြီးအတွက် အလှူတော်ငွေထည့်ဝင်ကြရာတွင် ဆဋ္ဌမညတရားပွဲ၌ ငွေကျပ်–၂၀၁၀ ကျော်ကောက်ခံရရှိ၏။ ထိုမြို့မှ ကြက်သား၊ ဘဲသားရှောင်ကြဉ်သူ(၁၀)ဦး၊ ငှက်ပစ်မှုရှောင်ကြဉ်သူ(၂၀)ဦး၊ ကုန်းသတ္တဝါအသားရှောင်ကြဉ်သူ(၂၀)ဦး၊ ဝက်သားရှောင်သူ(၃၀)ဦး၊ ကက်ဖဲတို့ကစားခြင်းမှရှောင်ကြဉ်သူ(၃၀)ဦး၊ ယစ်မျိုးငါးပါးရှောင်ကြဉ်သူ(၃၂၀)ဦး၊ အမဲသားရှောင်ကြဉ်သူ(၂၄၅၀)ဦးတို့ကိုလည်း စာရင်းကောက်ယူရခဲ့သည်။*၂

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ ၁၄၇–၁၅၀)။

*၂ ယင်း။ (စာမျက်နှာ ၁၅၀–၁၅၆)။

ညောင်တုန်း, ဟင်္သာတ, ဇလွန် စသည်သို့

ဇလွန်မြို့၌ ၆–ညတိုင်တိုင် ဆရာတော်ဘုရားကြီး၏တရားပွဲများကျင်းပပြီးနောက် ဟင်္သာတမြို့ကလည်း လာရောက်ပင့်ဆောင်သည့်အတွက် သက္ကရာဇ် ၁၂၇၅–ခုနှစ်၊ နတ်တော်လဆုတ် ၆–ရက် (အေဒီ–၁၈၊ ဒီဇင်ဘာလ၊ ၁၉၁၃–ခုနှစ်) နံနက် ၁၁–နာရီတွင် ဟင်္သာတမြို့သို့ကြွတော်မူ၍ အပူဇော်ခံယူတော်မူပါသည်။ ထိုမှတစ်ဖန် သက္ကရာဇ် ၁၂၇၅–ခုနှစ်၊ ပြာသိုလဆန်း ၁၁–ရက် (အေဒီ–၆၊ ဇန်နဝါရီလ၊ ၁၉၁၄–ခုနှစ်)တွင် ဇလွန်မြို့သို့ပြန်လည်ကြွတော်မူလာပြီး လဆန်း ၁၅–ရက်(အေဒီ–၁၀၊ ဇန်နဝါရီလ၊ ၁၉၁၄–ခုနှစ်)နှင့် လပြည့်ကျော် ၁–ရက် (အေဒီ–၁၁၊ ဇန်နဝါရီလ၊ ၁၉၁၄–ခုနှစ်)နေ့ညတို့တွင် ပရိညေယျဒုက္ခတရားတော်ကြီးကိုဟောကြားတော်မူပါသည်။

ဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၇၅–ခုနှစ်၊ ပြာသိုလပြည့်ကျော် ၂–ရက် (အေဒီ–၁၂၊ ဇန်နဝါရီလ၊ ၁၉၁၄–ခုနှစ်)တွင် အဖျောက်မြို့မှလာရောက်ပင့်ဆောင်သည့်အတွက် ကြွတော်မူရပြန်ပြီး၊ ပြာသိုလပြည့်ကျော် ၉–ရက်(အေဒီ–၂၀၊ ဇန်နဝါရီလ၊ ၁၉၁၄–ခုနှစ်)နေ့တွင် ဇလွန်မြို့ တတိယအကြိမ် ပြန်လည်ကြွတော်မူပြီးလျှင်၊ ပြာသိုလပြည့်ကျော် ၁၀–ရက် (အေဒီ–၂၁၊ ဇန်နဝါရီလ၊ ၁၉၁၄–ခုနှစ်) နှင့် ၁၁–ရက်ည (အေဒီ–၂၁၊ ဇန်နဝါရီလ၊ ၁၉၁၄–ခုနှစ်) တို့တွင် ခန္ဓာငါးပါးတရားတော်ကိုဟောပြောဆုံးမတော်မူ၍ ပြာသိုလပြည့်ကျော် ၁၂–ရက် (အေဒီ–၂၂၊ ဇန်နဝါရီလ၊ ၁၉၁၄–ခုနှစ်) နေ့တွင် အထက်မြို့ရွာများသို့ပြန်လည်ကြွချီတော်မူခဲ့ပါသည်။*၁

ရှင်ဝိမလ*၂ ရောက်ရှိခြင်း

ဤသို့လျှင် လယ်တီဆရာတော်ဘုရားကြီးသည် အထက်အောက်မြန်မာနိုင်ငံအနှံ့ ဆန်စုန်လျက် သာသနာအရေး, လောကအရေးအတွက် အားထုတ်ကြိုးပမ်းရွက်ဆောင်တော်မူနေချိန်အတွင်း သက္ကရာဇ် ၁၂၇၅–ခုနှစ်၊ တပို့တွဲလပြည့်ကျော် ၃–ရက် (အေဒီ–၁၂၊ ဖေဖော်ဝါရီလ၊ ၁၉၁၄–ခုနှစ်)တွင် ဆရာတော်ဘုရားကြီးခြေတော်ရင်းသို့ စာပေပရိယတ် လွန်စွာထူးချွန်သူ ရှင်ဝိမလဘွဲ့မည်ရှိသောသာမဏေငယ်ကလေး ရောက်ရှိလာပါသည်။*၃

မင်းလှမြို့သို့

လယ်တီဆရာတော်ဘုရားကြီးသည် မင်းလှမြို့ရှိ တပည့်ရင်းဦးဝိသုဒ္ဓ၊ အင်္ဂလိပ်မြန်မာစာပုံနှိပ်တိုက်ပိုင်ရှင် ဦးစံလှပေါ်တို့က တရားဓမ္မဟောပြောပြသ ဆုံးမတော်မူပါရန် ပင့်လျှောက်

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၅၇)။

*၂ နောင်အခါ မုံရွာမြို့ အရှေ့လယ်တီဆရာတော်ဦးဝါယာမ(အေဒီ ၁၉၀၂–၁၉၅၃)ဟူ၍ ထင်ရှားခဲ့ပါသည်။ ၁၂၆၀–ပြည့် (၁၉၃၁–ခုနှစ်)တွင် ပထမကျော်အောင်ပါသည်။ မုံရွာမြို့တွင် ပထမဦးဆုံးအောင်သော ပထမကျော်ဖြစ်သည်။ အရှေ့လယ်တီတိုက်ကြီးကို သက္ကရာဇ် ၁၂၉၆–ခုနှစ်၊ တန်ခူးလဆန်း ၁–ရက် (အေဒီ–၃၊ ဧပြီလ၊ ၁၉၃၅)တွင် တည်ထောင်တော်မူပါသည်။

*၃ နောင် ဤသာမဏေရှင်ဝိမလကို သက်ရှယ်စေရောက်သော် ဆရာတော်ဘုရားကြီးကိုယ်တော်တိုင် ဥပဇ္ဈာယ်ပြုလျက် ရဟန်းခံပေးတော်မူပါသည်။ ရဟန်းဖြစ်ချိန်၌ ရှင်ဝါယာမ–ဟု ဘွဲ့အမည်ပြောင်းခဲ့သည်။ ဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ ၄၉၆–၅၀၇)။

## လယ်တီဆရာတော်ကြီး၏တပည့်ရင်းများ



စစ်ကိုင်းမြို့၊ရန်ကုန်ကျောင်းဆရာတော်ဦးဓမ္မစာရီ



မုံရွာမြို့၊မိုးညှင်းဆရာတော်ကြီးဦးသုမန



မုံရွာမြို့၊အရှေ့လယ်တီဆရာတော်ဦးဝါယာမ



ပျဉ်းမနားမြို့၊စံကျောင်းဆရာတော်ဦးဥေယျ

ကြသည့်အတွက် သက္ကရာဇ် ၁၂၅၆–ခုနှစ်၊ ကဆုန်လဆန်း ၁၂–ရက် (အေဒီ–၅၊ မေလ၊ ၁၉၁၄–ခုနှစ်)တွင် လက်ပံတန်းမြို့မှ ည ၁၀–နာရီခွဲထွက်သောမီးရထားဖြင့် ကြွချီတော်မူလာရာ၊ ထိုည ၁၁–နာရီအချိန်တွင် မင်းလှမြို့သို့ဆိုက်ရောက်တော်မူပါသည်။

မင်းလှမြို့ပေါ်ရှိ မြို့ပိုင်၊ မြို့နယ်တရားမတရားသူကြီး၊ တိုက်သူကြီးမှစ၍ ရပ်ရွာလူကြီးလူကောင်းများ၊ ပဋ္ဌိစ္စသမုပ္ပါဒ်အသင်း၊ အဘိဓမ္မာကုမ္မာရီသံခိပ်အသင်းသူများက လယ်တီဆရာတော်ဘုရားကြီးအား မီးရထားဘူတာရုံမှဆီး၍ကြိုဆိုပူဇော်ကန်တော့ကြပါသည်။ ထို့နောက် မင်းလှမြို့ မြို့ပိုင်ရုံး ဘီလစ်စာရေးကြီးကိုဖူးညိုစီမံလုပ်ဆောင်ထားသော ပန်းရထားနှင့်ပင့်ယူပြီး မြို့ပေါ်သို့ တူရိယာအမျိုးမျိုးတီးမှုတ်လှည့်လည်လျက် ဓမ္မာရုံစံကျောင်းသို့ရောက်ရှိကာ ထိုည ဓမ္မာရုံစံကျောင်းမှာပင် သီတင်းသုံးတော်မူပါသည်။

သက္ကရာဇ် ၁၂၅၆–ခုနှစ်၊ ကဆုန်လဆန်း ၁၃–ရက် (အေဒီ–၆၊ မေလ၊ ၁၉၁၄–ခုနှစ်) ည ၈–နာရီတွင် စံကျောင်းတော်အနီး တရားဟောမဏ္ဍပ်တွင် တရားနာပရိသတ်နှစ်ထောင်ကျော်တို့အား ကမ္မဋ္ဌာအလင်းတရားတော်ကြီး ဟောပြောဆုံးမတော်မူပါသည်။ ဆရာတော်ဘုရားကြီးသည် ကဆုန်လဆန်း ၁၄–ရက် (အေဒီ–၇၊ မေလ၊ ၁၉၁၄–ခုနှစ်)တွင် ဗုဒ္ဓဘာသာအလင်းတရားတော်ကြီးကို ဟောပြောပြသတော်မူပါသည်။*[၁]

ရှင်ဥေ ယျ*[၂] လောင်းလျာရောက်ရှိခြင်း

မင်းလှမြို့၌ လယ်တီဆရာတော်ဘုရားကြီးသီတင်းသုံးနေတော်မူစဉ် ဦးဖိုးသာအမည်ရှိသော သစ်ဆိုင်ရှင်ဒါယကာတစ်ဦးသည် ဆရာတော်ကြီးခြေတော်ရင်း၌ ရဟန်းဘဝသို့ကူးပြောင်း၍ တရားအားထုတ်နည်းကို နည်းခံယူခဲ့သည်။ ပြီးလျှင် သထုံမြို့ တောင်ပိုင်းကြီးအရပ်သို့ ထွက်ကာ တရားအားထုတ်နေခဲ့သည်။ မိမိ၏သားသုံးဦးရှိသည့်တွင် သားကြီးမောင်စိန်နှင့် သားလတ် မောင်ခင်မောင်တို့ကိုလည်း ဆရာတော်ဘုရားကြီးထံပါး၌ သာမဏေဝတ်ဖြင့်အပ်နှံထားခဲ့ပါသည်။ ထိုကိုရင်ဝတ်သောသားနှစ်ဦးတွင် ကိုရင်မောင်စိန်(ကိုရင်ဘွဲ့ ရှင်ဥေ ယျ)မှာ ငယ်စဉ်က သီဟိုဠ်၌ပညာသင်ယူခဲ့ပြီး၊ ဟသ်ာတမြို့ အေတီအမ်ကျောင်းမှ သတ္တမတန်းအောင်မြင်ခဲ့သူဖြစ်၍ အင်္ဂလိပ်စာပေတတ်ကျွမ်းသည်။ လယ်တီဆရာတော်ဘုရားကြီးသည် ထိုရှင်ဥေ ယျကို နိုင်ငံခြားသာသနာပြုလုပ်ငန်းများအတွက် လွန်စွာအားကိုးတော်မူခဲ့သည်။ ထိုစဉ်အခါက အနယ်နယ်အရပ်ရပ်ပို့သောစာတို့ကို ဆရာတော်ဘုရားကြီးကိုယ်တော်စား ရှင်ဥေ ယျပင် စာပြန်ရေးရလေ့ရှိပေသည်။ သို့ဖြင့် ရှင်ဥေ ယျသည် ဆရာတော်ဘုရားကြီးကြွတော်မူရာသို့ နောက်တော်ပါးမှ ရေပူရေချမ်းကမ်းလှမ်းကာ လိုက်ပါရလေ့ရှိလေသည်။*[၃]

---

*[၁] ဓမ္မဒေသနာတရားသတင်းစာ။ အတွဲ–၆၊ အမှတ်–၆၈။ ၁၉၁၄–ခုနှစ်၊ ဇွန်လ။ (စာမျက်နှာ–၂၄)။

*[၂] နောင်အခါ ပျဉ်းမနားမြို့ လယ်တီစံကျောင်းဆရာတော်ကြီးဦးဥေ ယျ(အေဒီ ၁၈၉၇– ? ) ဟူ၍ ထင်ရှားကျော်ကြားတော်မူခဲ့ပါသည်။

*[၃] လယ်တီစံကျောင်းဆရာတော်၏ မဟာထေရုပ္ပတ္တိကထာအကျဉ်းချုပ်။ ၁၃၃၉–ခုနှစ်။ (စာမျက်နှာ–၂၊ ၃)။

မောင်သာတိုးပုစ္ဆာအဖြေ

မုံရွာမြို့ လယ်တီတောရကျောင်းတိုက်ကြီးအတွင်း၌ လယ်တီဆရာတော်ဘုရားကြီး ကိန်းအောင်းမွေ့လျော်နေတော်မူစဉ် ရွှေစက်တော်သမိုင်းစသော ဘုရားသမိုင်းကျမ်းဂန်များကိုရေးသားသော စကုမြို့ ဒုတိယတန်းအမိန့်တော်ရရှေ့နေ မောင်သာတိုးက (အေဒီ–၁၅၊ ဧပြီလ၊ ၁၉၁၄–ခုနှစ်) ရက်စွဲဖြင့် အောက်ပါမေးခွန်းတစ်ရပ်ကို မေးလျှောက်ခဲ့ပါသည်။

စကုမြို့
နေ့စွဲ။ ၁၅–၄–၁၉၁၄။

ဘုရားတပည့်တော်၊ စကုမြို့ ဒုတိယတန်းအမိန့်တော်ရရှေ့နေ မောင်သာတိုး ခြေတော်ဦးခိုက်၍ ရှိသေစွာလျှောက်ထားလိုက်ဝံ့ပါသည် ကိုယ်တော်အရှင်သူမြတ်ကြီးဘုရား။

တပည့်တော်သည် ဗုဒ္ဓဘာသာကျမ်းဂန်များကို အလေ့အထပြု၍ ကြည့်ရှုသင်ကြားရာ သတ္တဝါတို့၏တည်နေရာဘုံဌာနကို 'သြကာသလောက'၊ ၎င်းလောကသည်လည်း ဘုံ–၃၁ ကိုပင်ဆိုကြောင်းသိရပါသည်။

'လောက'ဆိုသောအနက်စကားမှာ ဖြစ်တတ်, ပျက်တတ်ခြင်း သဘောတရားဟုလည်း သိရပါသည်။ ထို့ကြောင့် 'လောက'ဟုဆိုသော ဘုံ–၃၁ ၏ ဖြစ်ပုံပျက်ပုံကို ကြည့်ရှုစုံစမ်းသောအခါ 'မီး–ရေ–လေ'တို့ကြောင့် တတိယဈာန် ၃–ဘုံအထိသာ ဖြစ်ပုံပျက်ပုံကို သိရပါသည်။ အထက်အထက်သော ဗြဟ္မာဘုံတို့၏ ဖြစ်ပုံပျက်ပုံကို မတွေ့ မသိရပါ။ 'လောက'ဆိုလျှင် ဖြစ်ရပျက်ရမည်ဟုသဘောရပါသည်။

သို့အတွက် ထိုအချက်ကို ပညာအမြော်အမြင်နှင့်ပြည့်စုံ၏ဟု အထင်ရသော 'ရဟန်း–ရှင်–လူ'တို့ကိုပင် လျှောက်ထားမေးမြန်းကြည့်ရာ ကျမ်းဂန်၌ တိုက်ရိုက်ရှိမည်မထင်။ 'သဗ္ဗေ သင်္ခါရာ အနိစ္စာ'ဟူသောတရားတော်အရဖြင့် မပျက်ဘဲမနေနိုင်၊ အမှန်ပျက်မည်ဖြစ်မည် အထင်ရကြောင်းနှင့် ထင်မြင်ချက်ကိုသာပေးနိုင်ကြပါသည်။

တပည့်တော်၏စိတ်ထင်မှာ 'သဗ္ဗေ သင်္ခါရာ အနိစ္စာ'ဟူသော တရားတော်အရ တတိယဈာန် ၃–ဘုံအထိ 'မီး–ရေ–လေ' တို့ကြောင့် ဖြစ်ပုံပျက်ပုံကို အနိစ္စတရားထင်ရှားဖို့ရာ မြတ်စွာဘုရားဟောထားခဲ့ပါလျှင် အထက်အထက်သောဘုံဌာနတို့၏ ဖြစ်ပုံပျက်ပုံကိုလည်း သဗ္ဗညုတရွှေဉာဏ်တော်ရသောဘုရားဖြစ်၍ မဟောခဲ့ဘဲဖြင့်ရှိနေတော့မည်မဟုတ်ဟု သဘောရပါသည်။

တပည့်တော်၏အထင်အတိုင်း တိုက်ရိုက်ဟောထားချက်မရှိခဲ့ပါလျှင် အခြားဘာသာကွဲတို့က ကောင်းကင်ဘုံသည် ဘယ်အခါမှ မပျက်မစီး၊ ထာဝရအမြဲပင်တည်လျက်ရှိ၏ဟုဆိုသောစကားကို ငြင်းဆန်နိုင်တော့မည်မဟုတ်ပါ။

သို့ပါ၍ တတိယစျာန် ၃–ဘုံ၏အထက်က ရှိရှိသမျှသော ဘုံဌာနအသီးအသီးတို့မှာ ဘာသာခြားလူမျိုးများအယူတရားအတိုင်း မပျက်ဘဲအမြဲတည်လျက်နေသည် ဆိုသောစကား မှန်ပါသလား။

သို့တည်းမဟုတ်လျှင်၊ တတိယစျာန် ၃–ဘုံ၏အထက်အထက်က ရှိရှိသမျှသော ဘုံဌာနအသီးအသီးတို့၏ ဖြစ်ပုံပျက်ပုံကို ခိုင်မာသောကျမ်းဂန်အထောက်အထား အကိုးအကားနှင့်တကွ တပည့်တော်အား ခြားနားစွာသိသာရန် ကိုယ်တော်တိုင် ဖြေဆိုချက်ကို ကယ်မပေးသနားတော်မူပါမည့်အကြောင်း ခြေတော်ဦးခိုက်၍ ရှိသေစွာလျှောက်ထားဝံ့ပါသည်ဘုရား။

ဖြေဆိုချက်ပေးသနားလိုက်စေလိုသောနေရာဌာနမှာ–

မောင်သာတိုး
ဒုတိယတန်းအမိန့်တော်ရရှေ့နေ
စကုမြို့
အထက်နိုင်ငံ၊ မင်းဘူးစီရင်စု။

စကုမြို့ ဒုတိယတန်းရှေ့နေ မောင်သာတိုး၏လျှောက်လွှာ ဆရာတော်၏ထံသို့ရောက်လာ၍ ၎င်းလျှောက်လွှာကို အောက်ပါအတိုင်း အကျဉ်းဖြေဆိုပြန်ကြားတော်မူပါသည်။

ဩကာသလောက၏အရ၊ သုံးဆယ့်တစ်ဘုံတို့တွင် ဝေဟပ္ဖိုလ်ဘုံ၊ အသညသတ်ဘုံ၊ သုဒ္ဓါဝါသငါးဘုံ၊ အရူပလေးဘုံ– ဤ (၁၁)ဘုံတို့သည် ကမ္ဘာပျက်မှုနှင့်ပျက်ခြင်းမရှိကြကုန်။ ကမ္ဘာပျက်မှုနှင့် ပျက်ခြင်းမရှိကြသည့်အတွက် နိစ္စဘုံ၊ ထာဝရဘုံဟူ၍ပင် ဆိုထိုက်ကြကုန်၏။ သင်္ခါရဓမ္မတို့၏ ဖြစ်မှုပျက်မှုနှင့် ပြောဆိုမှုကား ထိုဘုံတို့၌ရှိရှိသမျှသော ရုပ်နာမ်ဓမ္မသင်္ခါရတို့သည် တစ်နာရီမျှအသက်ရှည်၍ တည်နေနိုင်သည်မရှိကြကုန်။ ထိုဘုံသားတို့သည်လည်း မိမိတို့ဘုံမှာ ထာဝရအမြဲ တည်နေကြရသည်မဟုတ်ကုန်။ အသက်တန်းရှိသမျှသာလျှင် တည်နေကြရကုန်သည်။ အသက်တန်းကုန်ဆုံးလျှင် သေဆုံးကြရကုန်သည်။အရူပလေးဘုံတို့၌ ထိုကောင်းကင်အရပ်ကိုပင် အရူပဘုံခေါ်ရသည်။ ထိုကောင်းကင်ဟူသည် အထယ်အသားရှိတော့မည်မဟုတ်၊ ဖြစ်မှုပျက်မှု ရှိတော့သည်မဟုတ်။ ထိုအရူပဘုံခေါ်သော ဩကာသလောက၌ တည်ရှိကြကုန်သော နာမ်တရားအစုဟူသော သင်္ခါရလောက။ ထိုနာမ်တရားအစုကိုအစွဲပြု၍ အရူပပြဗ္ဗာဟူ၍ခေါ်ဆိုရသော ကမ္ဘာလောက။ ဤလောကနှစ်ပါးတို့သည်မူကား ဖြစ်မှုပျက်မှု အစဉ်ရှိသည်သာဖြစ်ကုန်၏။ ထို့ကြောင့် ထိုအရူပဘုံတို့မှာ ကမ္ဘာပျက်မှုနှင့် ဖြစ်ခြင်း,ပျက်ခြင်း မရှိကြကုန်ငြားသော်လည်း သင်္ခါရအတွက်နှင့် ဖြစ်ခြင်း,ပျက်ခြင်းတို့သည်မူကား ကေန္ဓ ရှိကြကုန်တော့သည်။ ကြွင်းသောဘုံတို့မှာလည်း ဤနည်းအလားတူ ဆင်ခြင်လေ။

ဤမျှလောက်သောဖြေချက်နှင့်ပင် မောင်သာတို့၏စိတ်သဘော ကျေနပ်လောက်သင့်လေပြီ။

၁၂၇၆–ခု၊ ကဆုန်လဆုတ်(၃)ရက်၊ *၁

မုံရွာ။ *၂

**ကျေနပညာသမဝါဆိုတော်မူခြင်း**

သက္ကရာဇ် ၁၂၇၆–ခုနှစ်၊ ဝါတွင်းကာလ(အေဒီ ၁၉၁၄–ခုနှစ်၊ ဇူလိုင်လ)သို့ရောက်သောအခါ၌ လယ်တီဆရာတော်ဘုရားကြီးသည် မုံရွာမြို့ လယ်တီတောရကျောင်းတိုက် စကြံကျောင်းကြီးမှာပင် (၄၉) ကြိမ်မြောက် ကျေနပညာသမဝါကို ကပ်ဆိုတော်မူခဲ့ပါသည်။

**ဗုဒ္ဓဘာသာဒီပနီကျမ်း**

လယ်တီဆရာတော်ဘုရားကြီးသည် မုံရွာမြို့ လယ်တီတောရအတွင်း၌ ဝါကပ်ဆိုနေတော်မူစဉ်အတွင်း နိုင်ငံခြားသာသနာပြုအသင်းနှင့်သက်ဆိုင်သောလုပ်ငန်းများကို စက္ခုတော်ဝေဒနာ ခ,နေပါလျက် အားမလျော့ကြိုးပမ်းတော်မူခဲ့ပါသည်။ ဤကာလအတွင်း ဥရောပတိုက်သို့ ပေးပို့ရန်အတွက် နိယာမငါးပါးတရားအကြောင်း၊ *၃ ကပ်ကြီးငါးပါးအကြောင်း၊ *၄ အစိန္တေယျ တရားလေးပါးအကြောင်း၊ *၅ သစ္စာနှစ်ပါးအကြောင်း၊ *၆ လောကသုံးပါးအကြောင်း၊ *၇ ပဋိစ္စသမုပ္ပါဒ် အင်္ဂါ ၁၂–ပါးအကြောင်း–စသည်တို့ကို ရှင်းလင်းရာဖြစ်သော ဗုဒ္ဓဘာသာဒီပနီ *၈ ကျမ်းကို ပါဠိဘာသာဖြင့် ပြုစုတော်မူခဲ့ပါသည်။ *၉

ဤသို့ လယ်တီဆရာတော်ဘုရားကြီးပြုစုတော်မူသော ဒီပနီကျမ်းစာများကို အင်္ဂလိပ်ဘာသာသို့ပြန်ဆိုရန်ကိုလည်းကြိုးပမ်းတော်မူခဲ့ရာ၊ ရှေးဦးစွာ ဝန်ထောက်ကြီးဦးရွှေဇံအောင်အား တာဝန်ပေးတော်မူပါသည်။ အကယ်၍ အခြားအင်္ဂလိပ်စာတတ်ပုဂ္ဂိုလ်များက ဘာသာပြန်ဆိုမည်ဆိုပါက ပြန်ဆိုနိုင်ရန်အတွက် မြန်မာ့အလင်းမဂ္ဂဇင်းတွင် အောက်ပါကြော်ငြာကိုလည်း ထည့်သွင်းခဲ့ပါသည်။

---

*၁ အေဒီ–၁၁၊ မေလ၊ ၁၉၁၄–ခုနှစ်ဖြစ်သည်။

*၂ လယ်တီဆရာတော်ကြီး၏ လယ်တီပဋ္ဌာအဖြေပေါင်းချုပ်ကျမ်းကြီး၊ ဒုတိယတွဲ။ မဟာိန္ဒစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ ၈၉–၉၂)။

*၃ ဥတုနိယာမ၊ ဗီဇနိယာမ၊ ကမ္မနိယာမ၊ စိတ္တနိယာမနှင့် ဓမ္မနိယာမ–တို့ဖြစ်သည်။

*၄ မဟာကပ်၊ အသင်္ချေယျကပ်၊ အန္တရကပ်၊ အာယုကပ်နှင့် အန္တရာယကပ်–တို့ပင်ဖြစ်သည်။

*၅ ဗုဒ္ဓဝိသယအစိန္တေယျ၊ ဈာနဝိသယအစိန္တေယျ၊ ကမ္မဝိပါကအစိန္တေယျနှင့် လောကစိန္တာအစိန္တေယျ–တို့ဖြစ်သည်။

*၆ သမ္မုတိသစ္စာနှင့် ပရမတ္ထသစ္စာတို့ဖြစ်သည်။

*၇ ဩကာသလောက၊ သင်္ခါရလောကနှင့် သတ္တလောကတို့ဖြစ်သည်။

*၈ ဤကျမ်းကို လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးက ဥရောပဗုဒ္ဓဘာသာအလင်းပြကျမ်း–ဟူသောအမည်ဖြင့် မြန်မာဘာသာသို့ ပြန်ဆိုခဲ့ပါသည်။

*၉ လယ်တီပဏ္ဍိတ၏ ဥရောပဗုဒ္ဓဘာသာအလင်းပြကျမ်း။ ဝိဇယပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ–၂၂၆)။

ကြော်ငြာစာ

လယ်တီဆရာတော်ဘုရားကြီး စီရင်ရေးသားပုံနှိပ်လုပ်ဆောင်ပြီး ဒီပနီကျမ်းများကို အဓိပ္ပာယ်မပျက်အောင် အင်္ဂလိပ်ဘာသာပြန်ဆိုပုံနှိပ်ရန်အတွက် ပြန်ဆိုလိုသူတို့က မည်သည့်ဒီပနီကျမ်းစာအုပ်ကို ပြန်ဆိုမည့်အကြောင်း အသင်းစက္ကရီတေရီထံ အခွင့်တောင်းခံ၍ ပြန်ဆိုပြီးစီးသည့်အခါ ၎င်းပြန်ဆိုချက်ကို ဝန်ထောက်မင်းဦးရွှေဖံအောင်(B.A.)ထံသို့ဖြစ်စေ၊ အသင်းကလွှဲအပ်ခံရသော ပညာရှိတစ်ဦးထံသို့ဖြစ်စေ၊ အသင်းကပေးပို့စစ်ဆေးကြည့်ရှုစေပြီးနောက် ၎င်းတို့ထံကထောက်ခံချက်ရရှိခဲ့လျှင် အသင်းအစည်းအဝေးက ညှိနှိုင်းဆုံးဖြတ် သတ်မှတ်ချက်အရ ပြန်ဆိုသူအား ဆုငွေချီးမြှင့်ပေးကမ်းမည့်အကြောင်း အများသိရန်ကြေညာပါသည်။*၁

အခြားကြော်ငြာစာတစ်ခုတွင်ကား ဒီပနီတစ်ကျမ်းကိုဘာသာပြန်ဆိုနိုင်ပါက ဆုငွေ ၁၀၀ိ/ ပေးမည်ဟူ၍လည်းပါရှိလေသည်။*၂ သို့ပါသော် အချို့သောဒီပနီကျမ်းတို့မှာ ပါဠိဘာသာဖြင့်ရှိနေရကား ထိုပါဠိဘာသာဖြင့်ရှိနေသောဒီပနီတို့ကို အင်္ဂလိပ်ဘာသာသို့ပြန်ဆိုရန်အတွက် ဦးစွာမြန်မာဘာသာပြန်ဆိုရန်ဖြစ်လေသည်။ မြန်မာဘာသာသို့ပြန်ဆိုရန်ကိစ္စကို လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးက တာဝန်ယူရလေသည်။ ဆရာဦးမောင်ကြီး မြန်မာဘာသာသို့ပြန်ဆိုပြီးသည့်ဒီပနီကျမ်းတို့ကိုသာ အင်္ဂလိပ်ဘာသာပြန်မည့်ပုဂ္ဂိုလ်က ဆက်လက်၍ အင်္ဂလိပ်ဘာသာသို့ပြန်ဆိုရမည်ဖြစ်သည်။

## လယ်တီဆရာတော်ဘုရားကြီးအားဖူးတွေ့ခြင်း

လယ်တီဆရာတော်ဘုရားကြီးသည် မုံရွာမြို့ လယ်တီတောရကျောင်းတိုက်အတွင်း စကြံကျောင်း၌သီတင်းသုံးနေတော်မူစဉ် ချောင်းဦးဓမ္မာရုံကျောင်းမှ ဦးဇင်းလေးနှစ်ပါး, ကိုရင်တစ်ပါးသည် လယ်တီဆရာတော်ဘုရားကြီးကို မဖူးဘူးသေးသည့်အတွက် ဖူးတွေ့ရအောင် ခြေတော်ရင်းသို့ ဦးခိုက်ရောက်ရှိလာကြပါသည်။ သို့ပါသော် ထိုဦးဇင်းလေးနှစ်ပါးနှင့် ကိုရင်တို့သည် ချောင်းဦးဓမ္မာရုံကျောင်းမှဖြစ်နေ၍ မိမိတို့၏ဆရာ ဓမ္မာရုံဆရာတော်ကြီးဦးဒီပမာလာမဟာထေရ်သည် လယ်တီဆရာတော်ကြီး၏ပရမတ္ထဒီပနီကျမ်းကိုချေပသော ပရမတ္ထဝိသောဓနီဋီကာသစ်ကျမ်းကိုရေးတော်မူဖူးသဖြင့် အကယ်၍ လယ်တီဆရာတော်ဘုရားကြီးက 'ဘယ်ကျောင်းကလဲ'ဟု မေးတော်မူခဲ့လျှင် 'အခြားသောကျောင်းက'ဟူ၍လွှဲဖယ်ဖြေကြားရန် တိုင်ပင်ထားကြပြီးဖြစ်သည်။ ထိုသို့ ဦးဇင်းလေးနှစ်ပါးနှင့်ကိုရင်တို့ လယ်တီဆရာတော်ဘုရားကြီးအားဖူးတွေ့ကြပုံကို အောက်ပါအတိုင်းမှတ်တမ်းတင်ထားပါသည်။

*၁ မြန်မာ့အလင်းမဂ္ဂဇင်း။ ၁၉၁၄-ခုနှစ်၊ ဩဂုတ်လ(၁၅)ရက်နေ့ထုတ်။

*၂ နိုင်ငံခြားဗုဒ္ဓဘာသာသာသနာပြုအသင်းကြီးဘော်ပြသော နှစ်ချုပ်စာတမ်း။ တိုင်းလုံးမိတ်ဆွေစာပုံနှိပ်တိုက်၊ မုံရွာမြို့။ ၁၉၂၅-ခုနှစ်။ (စာမျက်နှာ-၅)။

လယ်တီဆရာတော်ဘုရားကြီးကား တောနေဝါသနာပါသောဆရာတော်ဘုရားကြီးဖြစ်တော်မူ၏။ ကျောင်းတိုက်သည်လည်း တောဆန်ဆန် အသင့်အတင့်ကျောင်းတွေသာ ဖြစ်စေချင်၏။ ကျောင်းကောင်းကောင်းတွေကို အလိုမရှိဟု ကြားသိရဖူး၏။ ယခု ဆရာတော်ဘုရားကြီးသီတင်းသုံးတော်မူနေသောကျောင်းသည်ပင်လျှင် ဆရာတော်ဘုရားကြီးမရှိသခိုက် ဆရာတော်ဘုရားကြီးမသိအောင် အလျင်အမြန် လျှို့ဝှက်ဆောက်လုပ်ထားရသောကျောင်းဖြစ်သည်ဟု ကြားသိရဖူး၏။ ယင်းကျောင်းကို စကြံကျောင်းဟုခေါ်သည်။ တောင်နှင့်မြောက် အလျားရှည်၏။ အလယ်က နှစ်ခန်းကို အနောက်ဘက်တွင် ဆင်ဝင်ခန်းဖွင့်ထား၏။ အရှေ့ဘက်နှစ်ခန်းကိုလည်း ဆင်ဝင်ခန်းဖွင့်ထားသေး၏။ ယင်းဆင်ဝင်ခန်းကား နှစ်ထပ်ဖြစ်သည်။ ပုံသဏ္ဌာန်မှာ လေယာဉ်ပုံနှင့်တူလေသည်။

ဦးကောဝိဒ၊ ဦးသူရိယ–စသောရဟန်းများနှင့် ရှင်သုန္ဒရ*၁တို့သည် ဆရာတော်ဘုရားကြီး၏ရှေ့တော်မှောက်သို့ရောက်နေကြပေပြီ။ ဆရာတော်ဘုရားကြီးသည် သနပ်ဖက်ဆေးလိပ်ကိုရှူဖွာနေပေ၏။ ဆရာတော်ဘုရားကြီးအနားတွင် အသက်(၂၀) အရွယ်လောက်ရှိ ကပ္ပိယလုပ်နေသူလူတစ်ယောက်ကိုသာ မြင်ကြရ တွေ့ကြရသည်။ ယင်းမှတစ်ပါး အခြားကျောင်းသား,ကိုရင်ဟူ၍ မည်သူ့ကိုမျှမမြင်မတွေ့ကြရ။ ကပ္ပိယက စာရေးခုံကလေးပေါ်မှာ သွပ်ပြားကလေးတွေကို ကညစ်နှင့်စာရေးနေသည်။ ဘာစာတွေရေးနေသည်ဟူ၍ကား မသိကြရ။ သူက ရေးပြီးသားသွပ်ပြားကလေးတွေကိုလိပ်လိုက်သည်။ နောက် ကပ်ကြေးဖြင့်ကိုက်ဖြတ်လိုက်သည်။ နောက်တစ်ခါလည်း ထိုကဲ့သို့ပင် ရေးလိုက်,လိပ်လိုက်,ဖြတ်လိုက်နှင့် အလုပ်များနေတော့သည်။

ဆရာတော်ဘုရားကြီး၏ရှေ့တော်မှောက်ရောက်နေကြသော ဦးပဥ္စင်းများက ဆရာတော်ဘုရားကြီးအား ရှိခိုးဝတ်ချကန်တော့ကြပြီးသောအခါ အဆိုပါကပ္ပိယက 'အာဂန္တုများရောက်နေကြပါတယ်ဘုရား'ဟု ဆရာတော်ဘုရားကြီးအား လျှောက်ထားလိုက်၏။

ထိုအခါ ဆရာတော်ဘုရားကြီးက ခေါင်းကလေးပင့်တဲ့ပြီးလျှင်– 'အင်း– ဘယ်ကများတုန်း'ဟု မေးလိုက်သည်။

ခေါင်းဆောင်လုပ်သော ဦးကောဝိဒက 'တပည့်တော်များ ချောင်းဦးကပါဘုရား'ဟု ဣန္ဒြေရှိရှိ ပိပိရိရိ ပြတ်ပြတ်သားသား ပြောကြားလျှောက်ထားလိုက်၏။

'ချောင်းဦး ဘယ်တိုက်ကတုန်း'

'ယောသိတာရုံတိုက်ကပါဘုရား'

'ယောသိတာရုံဆရာတော်*၂ မာရဲ့ချာရဲ့နော်'

*၁ ဤကိုရင်သုန္ဒရသည် နောင်အခါ စစ်ကိုင်းမြို့ အဂ္ဂမဟာပဏ္ဍိတရွှေစေတီဆရာတော်ဘုရားကြီးဟုထင်ရှားတော်မူပါသည်။

*၂ ဝဇီရဂ္ဂပဥ္စာဗျာကရဏကျမ်းပြု ချောင်းဦးမြို့ ယောသိတာရုံဆရာတော်ဘုရားကြီးကိုဆိုလိုပါသည်။

'တင်ပါ၊ မာပါချာပါတယ်ဘုရား'

'စာများ ချနိုင်, ပို့နိုင်သေးရဲ့လား'

'တင်ပါ၊ ချနိုင်, ပို့နိုင်ပါသေးတယ်ဘုရား'

ဤကဲ့သို့ အမေးအဖြေပြုလုပ်ပြီးသည့်အခါ၌ ဆရာတော်ဘုရားကြီးသည် စကားပြောပြတ်သွား၏။ ဦးပဥ္စင်းများကလည်း တုတ်တုတ်မျှမလှုပ်ကြ။ ဤခန်းဆောင်ထဲ၌ မည်သူတစ်ဦးတစ်ယောက်မျှမရှိဟု ထင်ရလောက်အောင်ပင် တိတ်ဆိတ်ငြိမ်သက်နေတော့သည်။ အတန်ကြာမှ ဆရာတော်ဘုရားကြီးက ဆေးလိပ်ကို တစ်ဖွာနှစ်ဖွာလောက် ရှုရှိုက်လိုက်ပြီး စကားဆက်ပြန်သည်။

'တို့များ အရင်ကတော့ ဆေးလိပ်မသောက်ပါဘူး၊ မျက်စိကလဲမမြင်ရတော့ ညည့်လည်း လေပူထပြီး ကောင်းကောင်းအိပ်မပျော်တော့ ဒကာများက ပဒိုင်းရိုး ပဒိုင်းရွက်နဲ့ စပ်ပြီးလိပ်တဲ့ ဆေးလိပ်ကလေးမီးဝဲပေးရင် ကောင်းတယ်လို့လျှောက်ထားကြတာနဲ့ သောက်နေတာပဲ'ဟု ဆရာတော်ဘုရားကြီးက မိမိဆေးလိပ်သောက်ရပုံကို အမိန့်ရှိတော်မူပြီး တစ်ဆက်တည်းပင် ကပ္ပိယအားရည်ညွှန်းလျက် 'ဟော့-ဟောဒီကိုယ်တော်များ သာသနာပြုနိုင်အောင် လက်ဖွဲ့ကလေးတစ်လုံးစီနဲ့ ဆေးကလေးသုံးလုံးစီ လှူလိုက်ပါကွာ'ဟု မိန့်တော်မူ၏။

ထိုတွင် ကပ္ပိယက ခွက်ကြီးယူလာပြီး ဦးပဥ္စင်းများအား လက်ဖွဲ့တစ်လုံးစီနှင့် မဥ္ဇူစေ့ပမာဏရှိ အနက်ရောင်ဆေးလုံး သုံးလုံးစီ ဝေငှပေးလေသည်။

လက်ဖွဲ့များနှင့်ဆေးလုံးများ ဝေငှပြီးချိန်တွင် ဆရာတော်ဘုရားကြီးက 'ပရိယတ္တိသာသနာ တိုးတက်ပြန့်ပွားထွန်းကားလေအောင် စာသင်ကြရမယ်၊ စာသင်လို့ တတ်ပြီးတော့ စာချကြရမယ်၊ တရားလဲဟောကြရမယ်၊ တရားလဲအားထုတ်ကြရမယ်၊ ကိုင်း-သာသနာပြုနိုင်အောင် ဆေးလုံးကလေးတွေကို ခုပဲမျိုချလိုက်ကြ၊ လက်ဖွဲ့ကလေးကိုတော့ လက်ကိုင်ပဝါထောင့်မှာချည်ပြီးတော့ ဆောင်ထားကြ၊ အန္တရာယ်ကင်းတယ်' အစရှိသည်ဖြင့် အပိုမပါ လိုရာဖြစ်သော အမှာစကားကို အသားပါပါ မိန့်ကြားတော်မူလိုက်ပေသည်။

ဦးကောဝိဒက 'မှန်လှပါ၊ တပည့်တော်များ ပြန်ကြပါတော့မယ်ဘုရား'ဟု လျှောက်ထားလိုက်၏။

ဆရာတော်ဘုရားကြီးက 'အေးအေး-ပြန်ကြတော့၊ ပြန်ကြတော့'ဟု မိန့်တော်မူလိုက်သည်။

ဆရာတော်ဘုရားကြီး၏ လေးနက်သောစကားဖြင့် မိန့်ကြားတော်မူလိုက်ပုံများကို အားပါးတရရှိလှသဖြင့် ရှင်သုန္ဒရသည် ဆရာတော်ဘုရားကြီး မိန့်ကြားတော်မူစဉ်ကပင် ဆေးလုံးသုံးလုံးကို ဗြုန်းခနဲ မျိုချလိုက်ပေသည်။ လက်ဖွဲ့ကလေး

တစ်လုံးကိုတော့ လက်ကိုင်ပဝါထောင့်စွန်းတွင် မြဲမြဲချည်ထားလိုက်ပေသည်။ ဆရာတော်ဘုရားကြီးထံမှ ခွဲခွာလာခဲ့ကြပြီဖြစ်သော ယခုအခါ၌မူကား ဆရာတော်ဘုရားကြီး၏လက်ဖွဲ့ကလေးကို ဘာတွေရေးထားတာပါလိမ့်မည်လဲဟု သိချင်ဇောနှင့် ဖြေကြည့်ချင်သောကြောင့် 'ဦးပဋင်း၊ တပည့်တော် ဒီလက်ဖွဲ့ကလေးကို ဖြေကြည့်တော့မယ်' ဟု ဦးကောဝိဒအား ရှင်သုန္ဒရက စူးစူးစိုက်စိုက်ကြည့်၍ပြော၏။

ဦးကောဝိဒက 'မင်းဟာမင်း ကြည့်ချင်ကြည့် မကြည့်ချင်နေ' ဟုပြောလိုက်ရာ၊ ရှင်သုန္ဒရက 'ဒါ မိမိသဘောအတိုင်းဖြစ်နိုင်တယ်' ဟု သဘောပေါက်ကာ လက်ဖွဲ့ကလေးကို လက်သည်းကလေးနှင့်ကုတ်ပြီး ဖြေကြည့်လိုက်တော့သည်။

'အရဟံ' ဟု တစ်ကြောင်းဘွဲ့ရေးထားသည်ကိုမြင်တွေ့ရ၏။ ယင်းသို့ မြင်တွေ့ရသောအခါ၌ ရှင်သုန္ဒရသည် မိမိဖြေကြည့်လိုသည်ကို ဖြေကြည့်ရ၍ ကျေနပ်သွားကာ ပြန်၍လိပ်ပြီး လက်ကိုင်ပဝါထောင့်မှာ ကောင်းမွန်စွာ ပြန်၍ချည်ထားလိုက်တော့သည်။*၁

**သီအိုဆိုဖီအသင်းဆောင်းပါး**

လယ်တီဆရာတော်ဘုရားကြီးသည် ဗုဒ္ဓသာသနာတော်ကို ကမ္ဘာသို့လွှမ်းပတ်စေလိုသော ဆန္ဒကြီးမားတော်မူသည့်အလျောက် နိုင်ငံခြားသာသနာပြုအသင်းလုပ်ငန်းများကို အချိန်ပြည့်ဝစွာ ရွက်ဆောင်တော်မူရုံသာမက အခြားသောအသင်းအဖွဲ့တို့ကိုလည်း အဆက်အသွယ်မပြတ်စေဘဲ အားပေးချီးမြှောက်တော်မူလေ့ရှိပါသည်။ အထူးအားဖြင့် ထိုစဉ်က ဗုဒ္ဓဘာသာကိုပြန့်ပွားအောင် ဆောင်ရွက်နေသော သီအိုဆိုဖီခေါ် သဗ္ဗညုတအသင်းကိုလည်း မပစ်မပယ် အဆက်အသွယ်ပြုတော်မူခဲ့ပါသည်။

ဤသီအိုဆိုဖီအသင်းကြီးသည် သက္ကရာဇ်-၁၂၃၇ (အေဒီ-၁၈၇၅) ခုနှစ်တွင် အိန္ဒိယနိုင်ငံ၊ မဒရပ်မြို့နယ်၊ အာဒယာမြို့၌တည်ထောင်သောအသင်းကြီး (Theosophical Society) ဖြစ်သည်။ ထိုအသင်းကြီးသည် ဘာသာတရားများကိုတွေးတောဆင်ခြင်ခြင်းဟူသော ဒဿနနှင့် လက်တွေ့စမ်းသပ်လေ့ကျင့်အားထုတ်ခြင်းဟူသော သိပ္ပံပညာတို့ပေါင်းစပ်ပြီး လေ့လာနေသောအသင်းကြီးဖြစ်သည်။ အမေရိကန်လူမျိုး အငြိမ်းစား တပ်မတော်ကော်မရှင်နာမင်းကြီး ဗိုလ်မှူးကြီးအိုလကော့ (Colonel H.S. Olcott) နှင့် ရုရှားအမျိုးသမီး မဒမ်ဗလာဗတ်စကီး (Helena Petrovna Blavatsky) တို့သည်ဖွဲ့စည်းခဲ့ကြပြီးနောက် ဘာသာအယူအမျိုးမျိုးကိုလေ့လာခဲ့ကြရာမှ သက္ကရာဇ် ၁၂၄၂-ခုနှစ်၊ နယုန်လဆန်း ၁-ရက် (အေဒီ ၁၈၈၀-ပြည့်နှစ်၊ မေလ ၈-ရက်) တွင် ဗိုလ်မှူးကြီးအိုလကော့နှင့် မဒမ်ဗလာဗတ်စကီးတို့သည် သီဟိုဠ်ကျွန်းသို့သွားရောက်ပြီး ငါးပါးသီလနှင့် သရဏဂုံသုံးပါးကို

*၁ ဤအဖြစ်အပျက်တို့ကို အရှင်သုန္ဒရဘွဲ့မည်ခံ ရွှေစေတီဆရာတော်ဘုရားကြီးက ပြန်လည်အမိန့်ရှိတော်မူခြင်းဖြစ်ပါသည်။ လယ်တီအရှင်ကုလိသ၏ ရွှေစေတီဆရာတော်ဘုရားကြီး၏ တဘဝတသက်တာ။ ဇာပေပေါင်းကူးပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၈၅-ခုနှစ်။ (စာမျက်နှာ ၁၆-၁၉)။

## LEDI SAYADAW'S PREACHING.

သိဒ္ဒိဗိုဖစ်-အသင်း အစည်းအဝေးကြီးတွင်။
တင်သွင်းဘတ်ကြားရန်၊
ရှန်ရွှာ-လယ်တီဆရာတော်ဘုရားကြီး ရေးသားပေးသနားတော်
မူသော။ဗုဒ္ဓမြတ်စွာဘုရားဟောကြားတော်မူသည့်

# သီလ=သမာဓိ=ပညာ။

သိက္ခာ—၃—ပါးအကြောင်း။

——:o:——

(၁) အကျွန်ုပ်တို့၏၊အသင်္ချေယျ၊အပ္ပမေယျ၊အနန္တဂုဏ်တော်ကျေးဇူးတော်တို့၏အရှင်ကြီး-သခင်ကြီး ဖြစ်တော် မူပေသော၊ အရှင်ဂေါတမ ဗုဒ္ဓမြတ်စွာဘုရား၏ သာသနာတော်မြတ်ကြီးသည်။

သမ္မာသမ္ဗုဒ္ဓဿ ပဝေဒိတံ၊ သဒ္ဒေဝမနုဿ်။ သယံအဘိညာသစ္ဆိကတွာ၊ ပဝေ ဒေတိ။ သောဓမ္မံ ဒေသေတိ၊အာဒိကလျာဏံ၊ မဇ္ဈေကလျာဏံ။ပရိယောသာနကလျာဏံ သာတ္ထံ၊ သဗျဉ္ဇနံ၊ ကေဝလ ပရိပုဏ္ဏံ၊ပရိသုဒ္ဓံ၊ ဗြဟ္မစရိယံပကာသေတိ၊ ၊သိလက္ခန် ပါဠိတော်အဋ္ဌကထာ၊

သမ္မာသမ္ဗုဒ္ဓ၊သာသနာတော်၏ ဆန့်ကျင်ဘက် ဖြစ်သော- ရဟန်း ပုဏ္ဏား တို့နှင့် တကွ ဖြစ်သော၊ပဇာ၊ သတ္တဝါ၊အပေါင်းကို၊ သယံ၊ အလိုလို၊ အ[illegible]ညာ-အဘိညာယ၊ ထူးသောညာဏ်တော်ဖြင့် သိ၍၊ သစ္ဆိ ကတွာ၊ မျက်မှောက်ပြု၍၊ပဝေဒေတိ၊မိန့်ကြားတော်မူ၏၊သောဘဂဝါ၊ ထိုမြတ်စွာဘုရားသည်။ အာဒိကလျာဏံ၊ အစ၌ ကောင်း ခြင်း နှင့် ပြည့်စုံသော။ မဇ္ဈေကလျာဏံ၊ အလယ်၏ကောင်းခြင်းနှင့်ပြည့်စုံသော၊ ပရိယောသာနကလျာဏံ။ အဆုံး၏ ကောင်း ခြင်း နှင့် ပြည့် စုံသော၊



ရန်ကုန်မြို့ ဒီအိုဆိုဖီအသင်းသို့ လယ်တီဆရာတော်ကြီးချီးမြှင့်သောဩဝါဒကထာ
(၁၉၁၄-ခုနှစ်၊အောက်တိုဘာလထုတ် မြန်မာ့အလင်းမဂ္ဂဇင်း၌ပါရှိသည်။)

ခံယူသောက်တည်ပြီး ဗုဒ္ဓဘာသာဝင်အဖြစ်ရောက်ရှိခဲ့သည်။ ဗိုလ်မှူးကြီးအိုလကော့သည်ကား ဗုဒ္ဓသာသနာတော်၏တာဝန်တို့ကို လက်ဝဲပခုံးထက်၌လည်းကောင်း၊ သီအိုဆိုဖီအသင်း၏လုပ်ငန်း တာဝန်တို့ကို လက်ယာပခုံးထက်၌ထား၍ သက္ကရာဇ် ၁၂၇၀–ပြည့်နှစ်၊ နတ်တော်လပြည့်ကျော် ၁၂–ရက် (အေဒီ ၁၉၀၈–ခုနှစ်၊ ဒီဇင်ဘာလ ၁၂–ရက်) အာဒယာမြို့၌ ခေါင်းချသည့်အထိ ရွက်ဆောင်ခဲ့ပါသည်။

ဤသို့ဖြင့် ဘာသာအမျိုးမျိုးကို ကိုယ်ပိုင်ဉာဏ်ဖြင့်ကြံဆခြင်း၊ သိပ္ပံနည်းကျစမ်းသပ် ကြည့်ခြင်းပြုပြီးမှ ဗုဒ္ဓဘာသာ၏ကောင်းမွန်သာလွန်သောအချက်ကိုတွေ့ရှိ၍ ဗုဒ္ဓဘာသာဝင် ဖြစ်လာကြသော ဗိုလ်မှူးကြီးအိုလကော့နှင့် မဒမ်ဗလာဗတ်စကီးတို့ကို လယ်တီဆရာတော်ဘုရား ကြီးသည် အလွန်နှစ်သက်အားရဖြစ်မိသည်။ မိမိ၏တပည့်ရင်းများအထဲမှ နိုင်ငံခြားသာသနာပြု အသင်းကြီး၏စက္ကရီတေရီ၊ မုံရွာမြို့၊ အမိန့်တော်ရရှေ့နေဦးစံလင်းနှင့် မန္တလေးမြို့၊ နိုင်ငံခြား သာသနာပြုအသင်းအဖွဲ့ခွဲ ကိုယ်စားလှယ်စာရေးကြီးမောင်ကျော်လှ(အသားစားရှောင်ကြဉ်ရေး) တို့သည်လည်း သီအိုဆိုဖီအသင်းသားကြီးများပင်ဖြစ်ကြရာ ဆရာတော်ဘုရားကြီးက သီအိုဆိုဖီ အသင်းသားများထံသို့ ဗုဒ္ဓဘာသာ၏အခြေခံတရားတော်ဖြစ်သော သီလ,သမာဓိ,ပညာလုပ်ငန်း သုံးခုကို 'သီလ,သမာဓိ, ပညာ သိက္ခာ ၃–ပါး'ဟူသောခေါင်းစဉ်ဖြင့် ဩဝါဒကထာပို့ပေးတော် မူပါသည်။ ထိုဩဝါဒကထာကို ၁၉၁၄–ခုနှစ်၊ အောက်တိုဘာလ ၁၅–ရက်နေ့ထုတ် မြန်မာ့အလင်း မဂ္ဂဇင်းစာအုပ်တွင် ထည့်သွင်းဖော်ပြခဲ့လေသည်။*၁

အသင်းအဖွဲ့ဆိုင်ရာဩဝါဒကထာ

လယ်တီဆရာတော်ဘုရားကြီးသည် မန္တလေးမြို့၌သီတင်းသုံးနေတော်မူစဉ်အခါဖြစ်သည်။ မန္တလေးခရိုင်အတွင်းရှိ သမဝါယမအသင်းများဆိုင်ရာကော်မတီလူကြီးမင်းတို့၏အစည်းအဝေး ကြီးကို သက္ကရာဇ် ၁၂၇၆–ခုနှစ်၊ တပို့တွဲလပြည့်ကျော် ၆–ရက်(အေဒီ–၄၊ ဖေဖော်ဝါရီလ၊ ၁၉၁၅– ခုနှစ်) ကြာသပတေးနေ့ မွန်းလွဲ ၂–နာရီအချိန် တောင်ပြင် ကဠနမတီရပ်ရှိ ပွဲစားကြီးဦးဘိုးသာ ပိုင်သော ဝိုင်–အမ်–ဘီ–အေ အသင်းရုံး၌ကျင်းပပြုလုပ်ရာ ၎င်းအစည်းအဝေးကြီးပြီးဆုံးသည်နှင့် တပြိုင်နက် အသင်းဝန်မင်း မစ္စတာစတူးဝပ် (အိုင်–စီ–အက်)*၂ နှင့် အသင်းဝန်ထောက်မင်း မောင်မောင်ပြား A.T.M တို့က ဖိတ်မန်ပင့်လျှောက်ချက်အရ လယ်တီဆရာတော်ဘုရားကြီးသည် အစည်းအဝေးကျင်းပရာဌာနသို့ ကြွရောက်တော်မူလာပါသည်။ ထိုအခါ ပရိသတ်အပေါင်း လူကြီးလူကောင်းတို့က ရိုသေလေးမြတ်စွာ ရှိခိုးပူဇော်ဖူးမြော်ကန်တော့ခြင်းကို အသီးအသီး ပြုလုပ်ကြပါသည်။ ထိုနောက် အသင်းဝန်ထောက်မင်းက အသင်းစုဥက္ကဋ္ဌလူကြီးများအမည်နှင့် မိမိတို့ကြည့်ရှုအုပ်ချုပ်ရသောမြို့ရွာနယ်ပယ်များကို ဆရာတော်ဘုရားကြီးအားအသီးအသီးဖော်ပြ လျှောက်ထားပြောဆိုပါသည်။

*၁ မြန်မာ့အလင်းမဂ္ဂဇင်း။ အတွဲ–၃၊ အမှတ်–၂၀။ ၁၅၊ အောက်တိုဘာ၊ ၁၉၁၄–ခုနှစ်။ (စာမျက်နှာ ၁၆၄၅–၁၆၅၄)။

*၂ ဤပုဂ္ဂိုလ်သည် မြန်မာစာပေ၌ကျွမ်းကျင်နိုင်နင်း၍ နောင်အခါ လန်ဒန်မြို့တွင် မြန်မာ–အင်္ဂလိပ်အဘိဓာန်ကျမ်းကြီးကို ပါဝင်ပြုစုခဲ့သူလည်းဖြစ်သည်။

လယ်တီဆရာတော်ဘုရားကြီးက 'ယခုမျက်မှောက်၌ရှိနေကြသော ပရိသတ်တို့သည် သမဝါယမအသင်းဆိုင်ရာဥက္ကဋ္ဌလူကြီးတို့ဖြစ်ကြ၍ အသင်းနှင့်စပ်သောတရားဓမ္မကိုဟောကြား ညွှန်ပြမှ သင့်လျော်လိမ့်မည်'ဟု မိန့်ဆိုတော်မူပြီးလျှင် အသင်းနှင့်စပ်ဆိုင်သောတရားကို အောက်ပါ အတိုင်း ဟောကြားတော်မူပါသည်။

'အသင်းဆိုသည်မှာ ညီညွတ်စွာပြုလုပ်ဆောင်ရွက်ကြသော အမှုကိစ္စပင်ဖြစ် ကြောင်း။ တစ်ဦးနှင့်တစ်ဦးအပေါင်းအသင်းညီညွတ်ကြသည်ဆိုသော် လူကိုမဆို ထားနှင့်ဦး စိတ်စေတနာမရှိသော သစ်ပင်တို့တုံသော်လည်း ယိုယွင်းပျက်စီးခြင်းကို မဖြစ်နိုင်၊ မြဲမြဲခိုင်မာစွာတည်တန့်ကြောင်းကို မြတ်စွာဘုရားသခင်သည် ရုက္ခဓမ္မ ဇာတ် (ဇာ၊ ၁။ ၁၇။ ဇာ၊ ဋ္ဌ၊ ၁။ ၃၄၆။) ၌-

သာဓူ သမ္ဗဟုလာ ဉာတီ၊ အပိ ရုက္ခာ အရညဇာ။

ဝါတော ဝဟတိ ဧကဋ္ဌံ၊ ဗြဟန္တမ္ပိ ဝနပ္ပတိံ။ ။ဟု ဟောတော်မူသည်။

ဉာတိ-အဆွေအမျိုးတို့သည်၊ သမ္ဗဟုလာ-ညီညီညာညာ များကုန်မူကား၊ သာဓူ-ကောင်း၏။ အရညာ-တော၌ဖြစ်ကုန်သော၊ ရုက္ခာအပိ-သစ်ပင်တို့သည် လည်း၊ သမ္ဗဟုလာ-ညီညီညာညာများကုန်မူကား၊ သာဓူ-ကောင်း၏။ ဧကဋ္ဌံ- တစ်ပင်တည်းသာတည်သော၊ ဗြဟန္တံ -ကြီးစွာသော၊ ဝနပ္ပတိံ-တောစိုးသစ်ပင် ကိုလည်း၊ ဝါတော-လေသည်၊ ဝဟတိ-လှဲနိုင်၏။

အဓိပ္ပာယ်မှာ- လောက၌ အဆွေအမျိုးတော်သူအချင်းချင်းတို့ သင့်တင့်ညီညွတ် စွာ ဝမ်းမြောက်ဝမ်းသာရှိကြလျှင် ရန်သူတို့သည်မဖျက်ဆီးနိုင်။ လူကိုမဆိုထားနှင့်၊ တောသစ်ပင်များပင် ညီညာကမပျက်စီးနိုင်ကြောင်း-ဖြစ်သည်။

ရှေးလွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းကြီးမင်းပြုသောအခါ ဟိမဝန္တာတော၌ ရှေးဦးစွာဖြစ်သော ဝဿဝဏ်နတ်မင်းကြီးသေ၍ သိကြားမင်းသည် တစ်ယောက်သောဝဿဝဏ်နတ်မင်းကို လဲလှယ်၍နေစေသည်ရှိသော်၊ ထိုဝဿဝဏ် နတ်မင်းက နတ်အပေါင်းတို့အား 'သစ်ပင်ကြီးသစ်ပင်ငယ် အရွယ်အမျိုးမျိုးများကို အလိုရှိရာဌာနတွင် နှစ်သက်ရာယူငင်ကြကုန်'ဟု မိန့်တော်မူသည်ရှိသော် ဘုရား အလောင်းသည် ဟိမဝန္တာအရပ်တွင် တစ်ခုသောအင်ကြင်းတောမှာ ရုက္ခစိုးနတ် ဖြစ်၍နေ၏။ ထိုဘုရားလောင်းဖြစ်သောနတ်မင်းသည် ဆွေမျိုးတော်သူနတ်အပေါင်း တို့အား 'သင်တို့သည် ဗိမာန်နေရာယူကုန်သောအခါ လွင်ပြင်၌ပေါက်ရောက်သော သစ်ပင်တို့ကို မယူကြကုန်လင့်။ မိမိဗိမာန်အနီးရှိ အင်ကြင်းတောမှာ အခြံအရံရှိသော သစ်ပင်များကိုယူကြကုန်'ဟုပြောဆို၏။ ထိုအခါ ပညာရှိသောနတ်တို့သည် အင်ကြင်း တောတွင် တစ်ပင်နှင့်တစ်ပင် အကိုင်းချင်းယှက် အခက်ချင်းလိမ်ကာ မှီတွယ်ရာ

အမျိုးမျိုးရှိသော နေရာဗိမာန်ကိုယူကြကုန်သည်။ ပညာမရှိသောနတ်တို့သည် လွင်ပြင်အရပ်၌ ပေါက်ရောက်လျက်ရှိသော သစ်ပင်ကြီးတို့ကို ယူကြကုန်သည်။

တစ်နေ့သ၌ ကြီးစွာသောလေပြင်းမုန်တိုင်းလာသည်ရှိသော် အင်ကြင်းတောတွင် တစ်ပင်နှင့်တစ်ပင် အကိုင်းချင်း အခက်ချင်း အရွက်ချင်း ပေါင်းသင်းညီညာစွာ စပ်လျဉ်မှီတွယ်ကြရသဖြင့် ယိမ်းကာန္တဲ့ကာ နေသာထိုင်သာရှိရုံသကဲ့သို့ ဖြစ်ကြကုန်သည်။ လွင်ပြင်အရပ်၌ရှိသောသစ်ပင်ကြီးတို့သည် လေ၏အဟုန်ဖြင့် အမြစ်ဆုံနှင့်တကွ ကျွမ်းထောင်၍လဲကြလေသည်။ ထိုအခါ သစ်ပင်ကြီးမှာနေသော နတ်တို့သည် မှီရာတည်ရာမရကြကုန်သည်။ အင်ကြင်းတောနေ ရုက္ခစိုးနတ်များကပြောဆိုသည်မှာ 'အထက်က အသင်နတ်တို့သည် လွင်ပြင်ထီးထီးသစ်ပင်ကြီးကို စိုးမိုးပိုင်ဆိုင်နေထိုင်ရသည့်အတွက် ပင်ကြီးရှိန်တက်၍ ပျက်ရယ်ပြောင်လှောင်ကြလေသည်။ ယခုမှာမူ လေပြင်းလာသောအခါ ကျွန်ုပ်တို့သစ်ပင်ငယ်များ၏တည်ရာ အင်ကြင်းတောမှာ တစ်ပင်နှင့်တစ်ပင် တစ်ကိုင်းနှင့်တစ်ကိုင်း ညီညာစွာ မှီရာတည်ရာရရှိကြသဖြင့် ပျက်စီးခြင်းမရှိကြပါ။ ပင်ကြီးရှင်များမှာသာ မှီရာတည်ရာ ညီညာမည့်သူမရှိ၍ ကိုယ်ထီးကျန်ရလေသည်'ဟုပြောဆိုကြသော အဆင့်စကားများကို ဘုရားလောင်းနတ်သားသိသဖြင့် နတ်အပေါင်းတို့အား ပညာရှိတို့စကားကို နားမထောင်ဘဲ မှီရာတည်ရာ ထောက်ပံ့ညီညွတ်စွာမရှိသောအရပ်ကို သွားကုန်သောသူတို့သည် ဤကဲ့သို့ပင် ပျက်စီးရမြဲဖြစ်ကြောင်းနှင့်ပြောဆိုသော၊ ၎င်းသစ်ပင်ဥပမာကဲ့သို့ ညီညွတ်စွာပေါင်းသင်းဆက်ဆံခြင်း အမှုမည်သည် ပျက်စီးခြင်းငှာမတတ်နိုင် မြဲမြံခိုင်ခံ့သောအမှုမျိုးပင်ဖြစ်လေသည်။

ထိုပြင် အိမ်ဆောက်လုပ်ရာ၊ တံတားဆောက်လုပ်ရာများ၌ ခင်းထားသော ကြမ်းများကဲ့သို့ တစ်ချောင်းစီ တစ်ချောင်းစီသာရှိပါမူ ကျိုးပဲ့ပျက်စီးရာပင်ဖြစ်လေသည်။ အများအပြား ညီညီညာညာခင်းထားက မပျက်မစီးနိုင် ကြံ့ခိုင်စွာတည်နေသကဲ့သို့ အသင်းဟူသောညီညွတ်ခြင်းသည် မြဲမြံခိုင်ခံ့သောအမှုမျိုးပင်ဖြစ်ကြောင်း ဥပမာအားဖြင့် ဟောကြားတော်မူပါသည်။

ထိုပြင် ဘဒ္ဒဝဂ္ဂီမင်းသားသုံးကျိပ်တို့နှင့်တကွ အခြေအရံပရိသတ်တို့ပါ မြတ်စွာဘုရားလက်ထက်တော်မှာ မရှေးမနှောင်းတပေါင်းတည်း အရဟတ္တဖိုလ်နိဗ္ဗာန်ကို မျက်မှောက်ပြုကြရကုန်သည်။ ဤကဲ့သို့ ညီညီညာညာနိဗ္ဗာန်ချမ်းသာတိုင်ရောက်ရခြင်းအကြောင်းမှာ ပါရမီဖြည့်ဆည်းပူးစဉ် နောက်နောက်သောဘဝများက အသင်းအပင်းပြု၍ သူဌေးသားများဖြစ်စဉ်အခါတွင် ရေမရှိသောအရပ်၌ ရေတွင်းရေကန်တူးဖော်ပေးကြခြင်း၊ သွားလာရန်လမ်းများကို ပြင်ဆင်ပေးကြခြင်း၊ တံတားဆောက်လုပ်ခင်းကျင်းပေးကြခြင်း၊ သူနာများကို ဆေးဝါးအစာအာဟာရမှစ၍ ပြုစုကျွေးမွေးထောက်ပံ့ပေးကမ်းကြခြင်း၊ သေသောသူများကို သင်္ဂြိုဟ်မည့်သူမရှိလျှင်

မိမိတို့ကသဂြိုဟ်ဆောင်ရွက်ကြခြင်း၊ ဆင်းရဲဒုက္ခရောက်ရှိနေကြသူများကို ပြုစုကျွေးမွေးပေးကမ်းခြင်းစသောအမှုများကို အညီအညွတ်ပြုလုပ်ဆောင်ရွက်ပေးကြဖူးသည့်အတွက်ကြောင့် အရဟတ္တဖိုလ်သို့တပြိုင်နက်ရရှိကြလေသည်။

ထိုပြင် ကပ္ပိနမင်းကြီးနှင့်တကွ မင်းယောက်ျားအခြွေအရံပရိသတ် အနောဇာမိဖုရားနှင့်တကွ မင်းမိန်းမအခြွေအရံပရိသတ်တို့သည်လည်း မဂ်ဖိုလ်နိဗ္ဗာန်ကို အတူတကွရကြခြင်းသည် နောက်နောက်သောဘဝများက ပါရမီဖြည့်ကျင့်ဆည်းပူးစဉ်အခါ ကုသလကမ္မပထများကို အညီအညာပြုလုပ်ကြသဖြင့်သာ ရကြရောက်ကြလေကုန်သည်။

ဤကဲ့သို့သော ဝတ္ထုသက်သေများကို ထောက်ထားသဖြင့် အသင်းအပင်းဖွဲ့စည်းတည်ထောင်ပြုလုပ်ခြင်းတည်းဟူသော ညီညာစွာဆောင်ရွက်လုပ်ကိုင်ခြင်းမျိုးမည်သည် ယခုမှပေါ်လာသော နည်းသစ်နည်းဆန်းမဟုတ်။ ရှေးရှေးသော သူတော်ကောင်းပညာရှိအပေါင်းတို့ပြုလုပ်ကြမြဲဓလေ့ထုံးစံကြီးဖြစ်လေသည်။ သို့ဖြစ်၍ အသင်းဖွဲ့စည်းခြင်းသည် လောကီလောကုတ္တရာ နှစ်ဖြာသောအကျိုး တိုးပွားများမြောင်နိုင်ကြောင်း မိန့်ဆိုညွှန်ပြ ဟောကြားတော်မူလေသည်။*၁

**မန္တလေးမြို့လယ်တီစံကျောင်း**

လယ်တီဆရာတော်ဘုရားကြီးသည် နိုင်ငံခြားသာသနာပြုအသင်း၏လုပ်ငန်းအဝဝကိုရွက်ဆောင်နေတော်မူရန်အတွက် မန္တလေးမြို့သို့မကြာမကြာကြွချီတော်မူရသည်။ ထိုအခါ ဆရာတော်ဘုရားကြီးအား မန္တလေးမြို့တွင် သင့်မြတ်သောဌာနတွင်ကျောင်းဆောက်လှူရန် ဆရာတော်ကြီး၏ကျမ်းစာအုပ်များကိုရိုက်နှိပ်ပေးနေသော မန္တလေး ဒါးတန်းရပ်နေ ရတနာပုံစာအုပ်ဆိုင်ပိုင်ရှင်မင်းကြီးကတော်မမညွှန့်၌ စိတ်အကြံဖြစ်ပေါ်ခဲ့သည်။ ထိုဒါယိကာမကြီးမှာ သူမ၏ခင်ပွန်း အခွန်ဝန်ဦးမှို၊ မောင်ဘဦးနှင့်မောင်ဘထူးအမည်ရှိ သားနှစ်ဦးတို့မှာ ရှေ့ဆင့်နောက်ဆင့်ဆိုသလို ကွယ်လွန်ကြရာ များစွာသံဝေဂရပြီး မိမိပိုင်ပစ္စည်းများကို (၇)ပုံ,ပုံ၍ ခွဲဝေလှူဒါန်းခဲ့ပြီးဖြစ်ပါသည်။ သို့ဖြင့် မင်းကြီးကတော်မမညွှန့်သည် မန္တလေးမြို့ အနောက်ပြင် စည်ရှင်လမ်း ကျုံးထိပ်ရှိ ဝန်းသိုစော်ဘွားဝင်း*၂ ကိုဝယ်ယူပြီးလျှင် ရတနာပုံကျောင်းကြီးကိုဆောက်လုပ်၍ လယ်တီဆရာတော်ဘုရားကြီးအားလှူဒါန်းခဲ့သည်။ တစ်ဖန် မန္တလေးမြို့ ဝါးတန်းရပ်နေ ရတနာသီရိစာအုပ်ဆိုင်ပိုင်ရှင်ဒေါ်လုံးကလည်း ရတနာသီရိအမည်ရှိသော ကျောင်းကြီးတစ်ဆောင်ကို လယ်တီဝင်းအတွင်းမှာပင်ဆောက်လုပ်၍လှူဒါန်းပြန်ပါသည်။ ဤသို့ မင်းကြီးကတော်မမညွှန့် ဆောက်လုပ်သောကျောင်းကို နောင်အခါ 'ရတနာပုံလယ်တီစံကျောင်း' ဟူ၍ အမည်တွင်ပါသည်။*၃

---

*၁ ဓမ္မဒေသနာတရားသတင်းစာ။ အတွဲ–၆၊ အမှတ်–၇၆။ ၁၉၁၅–ခုနှစ်၊ ဖေဖော်ဝါရီလ။ (စာမျက်နှာ ၂၀–၂၃)။

*၂ ဤဝင်းသည် မန္တလေးမြို့မြောက်ပြင် အောင်မြေသာစံမြို့နယ် မေဃဂီရိရပ် (၁၉)လမ်းနှင့် (၁၈)လမ်းကြား၊ လမ်း (၈၀)နှင့် (၈၁)လမ်းကြားတွင်ရှိသည်။ ရှေးက 'လယ်တီဝင်း' ဟုထင်ရှားခဲ့သည်။

*၃ သူရိယမဂ္ဂဇင်း။ ၁၉၃၀–ပြည့်နှစ်၊ မတ်လထုတ်။

**ဝိပဿနာဒီပနီ**

လယ်တီဆရာတော်ဘုရားကြီးသည် မန္တလေးမြို့ မင်းကြီးကတော်မမည္ဘန့် ဆောက်လှူအပ်သော ရတနာပုံလယ်တီစံကျောင်း၌သီတင်းသုံးနေတော်မူစဉ် ဥရောပတိုက်သားဗုဒ္ဓဘာသာဝင်များ ဝိပဿနာကမ္မဋ္ဌာန်းအလုပ်ကို သိကြစေရန်အလို့ငှာ ဝိပဿနာလုပ်ငန်းအားထုတ်ပုံအဆင့်ဆင့်ကိုရှင်းပြသော 'ဝိပဿနာဒီပနီ'အမည်ရှိသောကျမ်းစာကို ပါဠိဘာသာဖြင့် ရေးစီရင်တော်မူပါသည်။

ဝိပဿနာဒီပနီကျမ်းတွင် အခန်းကြီး(၉)ခန်းပါရှိလေရာ၊ ထိုအခန်းတို့မှာ–

၁။ ဝိပလ္လာသကထာ = ဖောက်ပြန်မှားယွင်းစွာ အမှတ်မှားခြင်း၊ ကြံသိမှားခြင်း၊ အယူအမြင် မှားခြင်းတို့အကြောင်း၊

၂။ မညနာကထာ = အထင်ကြီးခြင်းအကြောင်း၊

၃။ အဘိနိဝေသကထာ = စွဲလမ်းမှုနိုင်မြဲခြင်းအကြောင်း၊

၄။ ဘူမိကထာ = သတ္တဝါတို့၏တည်ရာ မှီရာ ဖြစ်ပွားရာအကြောင်း၊

၅။ ဂတိကထာ = ဘဝလားရာအကြောင်း၊

၆။ သစ္စကထာ = အစဉ်ထာဝရ ညီညွတ်ဖြောင့်မှန်သည့်တရားများအကြောင်း၊

၇။ ပစ္စယကထာ = ဇာတိ,ဇရာ,မရဏာနယ်တို့မှ မလွတ်သောအကြောင်းဆက်တရားတို့အကြောင်း၊

၈။ အဘိညာကထာ = ပကတိသောလူ, သာမညလူတို့၏ ဉာဏ်ကိုလွန်သော ဉာဏ်ထူးဉာဏ်မြတ်ကြီးတို့အကြောင်း၊

၉။ ပရိညာကထာ = ဉာဏ်၏ပိုင်နိုင်မှုအကြောင်း–

ထိုအခန်း(၉)ခန်းတွင် နောက်ဆုံးဖြစ်သော ပရိညာကထာ၌ ဝိပဿနာလုပ်ငန်းကို ဖော်ပြရေးသားတော်မူခဲ့ပြီး ဤဝိပဿနာဒီပနီကျမ်း၌ အချို့ကို ပါဠိတော်တို့မှ တိုက်ရိုက်ယူတော်မူသော်လည်း အများစုအချက်တို့သည်ကား ဆရာတော်ဘုရားကြီး၏ကိုယ်တွေ့သက်သေမှုထုတ်ဆောင်ပြချက်များဖြစ်ပါပေသည်။ ဝိပဿနာဒီပနီကျမ်းနိဂုံး၌ ဆရာတော်ဘုရားကြီးက 'ဥရောပတိုက်သား ဗုဒ္ဓဘာသာလူအများတို့၏အကျိုးငှာ ဝိပဿနာကမ္မဋ္ဌာန်းအလုပ်ကို အကျဉ်းချုပ်စီရင်ချက်ပြီး၏'ဟုဖော်ပြထား၏။ ဤကျမ်းကို သက္ကရာဇ် ၁၂၇၆–ခုနှစ်၊ တပေါင်းလဆန်း ၁၄–ရက် (အေဒီ–၂၆၊ ဖေဖော်ဝါရီလ၊ ၁၉၁၅–ခုနှစ်)တွင် ရေးသားတော်မူခဲ့ခြင်းဖြစ်ပါသည်။

**ပညာသမဝါကပ်ဆိုတော်မူခြင်း**

လယ်တီဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၇၇–ခုနှစ်၊ ဝါတွင်းကာလ (အေဒီ ၁၉၁၅–ခုနှစ်၊ ဇူလိုင်လ)တွင် မန္တလေးမြို့ မေယဂီရိရပ်ရှိ ရတနာပုံလယ်တီစံကျောင်း၌ နိုင်ငံခြားသာသနာပြုလုပ်ငန်းများကိုလုပ်ဆောင်တော်မူလျက် အကြိမ်(၅၀)မြောက် ပညာသမဝါကို ကပ်ဆိုတော်မူပါသည်။

မြန်မာပါဠိမှ အင်္ဂလိပ်ပါဠိသို့

လယ်တီဆရာတော်ဘုရားကြီးက ဝိပဿနာဒီပနီ၊ ယမိုက်ပုစ္ဆာဝိသဇ္ဇနာ၊ သာသနာသမ္ပတ္တိဒီပနီ၊ နိယာမဒီပနီ၊ ဗုဒ္ဓဘာသာဒီပနီ၊ သမ္မာဒိဋ္ဌိဒီပနီ၊ ပဋ္ဌာနုဒ္ဒေသဒီပနီ–စသောဒီပနီ, ဝိသဇ္ဇနာအမျိုးမျိုးကို မြန်မာအက္ခရာဖြင့်ရေးသားတော်မူခဲ့ရာဝယ် အနောက်နိုင်ငံသား ပါဠိပညာရှင်တို့ဖတ်ရှုနားလည်နိုင်ကြစေရန် လန်ဒန်မြို့သို့ ဆရာတော်ဘုရားကြီး၏စာတော်များကိုပေးပို့သောအခါ အင်္ဂလိပ်အက္ခရာသို့ လွှဲပြောင်းရေးသားရလေသည်။

အက္ခရာဖလှယ်သည်ဟူရာ၌ ပမာအားဖြင့် 'နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ' ဟူသော ပါဠိဘာသာ မြန်မာအက္ခရာကို 'Namo Tassa Bagavato Arahato Sammāsambhuddhassa' ဟူသော ပါဠိဘာသာအင်္ဂလိပ်(ရောမ)အက္ခရာသို့ လွှဲပြောင်းရေးခြင်းမျိုးဖြစ်ပါသည်။

ထိုသို့အက္ခရာဖလှယ်ခြင်းလုပ်ငန်းကို မစိုးရိမ်ဆရာတော် ပထမကျော်ဦးဉာဏ၊ ဦးမောင်ကြီး၊ စစ်ကိုင်းတောင်ရိုးကသီလရှင် မဂုဏဝတီ၊ မမာလာရီတို့က အက္ခရာဖလှယ်ကြပါသည်။ အက္ခရာဖလှယ်ပေးသောသီလရှင်ဆရာနှစ်ပါးအား နိုင်ငံခြားသာသနာပြုအသင်းကြီးက နှစ်စဉ်ဆွမ်းဆန်တော်အတွက် ငွေ ၂၀ဝိ/–ထောက်ပံ့ပါသည်။ ထိုသီလရှင်ဆရာနှစ်ပါးသည် ဆရာတော်ဘုရားကြီး၏ကျမ်းစာတို့ကိုအက္ခရာပြန်ပြီးနောက် သုတ်သုံးကျမ်းနှင့် သုမင်္ဂလဝိလာသိနီအဋ္ဌကထာကျမ်းတို့ကိုပါ ဆက်လက်အက္ခရာပြန်ကြပါသည်။

ဤသို့ဖြင့် ဆရာတော်ဘုရားကြီးကိုယ်တော်တိုင် ဦးဆောင်၍ နိုင်ငံခြားသာသနာပြုအသင်းကြီးအတွက် အစည်းအဝေးများပြုလုပ်ခြင်း၊ ကျမ်းစာများပြုစုခြင်း၊ ကျမ်းစာများအက္ခရာဖလှယ်ခြင်း၊ ကျမ်းစာများဘာသာပြန်ဆိုခြင်း၊ ပြည်တွင်းပြည်ပအရပ်ရပ်မှအမေးပုစ္ဆာတို့ကို အကျဉ်းရေးသားဖြေဆိုပေးပို့ခြင်း၊ အသင်းရန်ပုံငွေရရေးအတွက် လယ်တီဓမ္မကထိကများဖြစ်သော ဦးဝဏ္ဏိတ၊ ဦးပဒုမတို့အား နယ်လှည့်တရားဟောကြားရန်ပြင်ဆင်စေခြင်း စသည့်လုပ်ငန်းတာဝန်များစွာကိုရွက်ဆောင်တော်မူနေရသည်ဖြစ်ရာ နယ်ပိုင်ဝန်ထောက်မောင်လူကလေးထံမှ ဥတ္တမပုရိသဒီပနီကျမ်းမှာပါရှိသော စကားရပ်အချို့ကို မရှင်းလင်းသည့်အတွက် ရှင်းလင်းပေးပါရန် လျှောက်ထားရာတွင် ဆရာတော်ဘုရားကြီးက–

'ဆရာတော်မှာ ယခုအခါသည် နိုင်ငံခြားသာသနာပြုမှုအရေးကိစ္စနှင့်စပ်လျဉ်း၍ အလွန်များပြားလျက်ရှိနေသောကြောင့် မောင်လူကလေးအမေး ပြေလောက်ရုံကိုသာ ရေးပေးလိုက်သည်'

မန္တလေးမြို့။

၁၂၇၆–ခုနှစ်၊ ဝါခေါင်လဆုတ် ၁၃–ရက်။[*၁]

ဟူ၍ ပြန်ကြားတော်မူခဲ့ပါသည်။[*၂]

---

*၁ အေဒီ–၇၊ စက်တင်ဘာလ၊ ၁၉၁၅–ခုနှစ် ဖြစ်သည်။

*၂ လယ်တီဆရာတော်ကြီး၏ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်၊ ဒုတိယတွဲ။ (စာမျက်နှာ–၈၇)။

သဒ္ဒတ္ထရတနာဝလိမဟာပါဠိအဘိဓာန်

လန်ဒန်ပါဠိဒေဝီ၏ခင်ပွန်းဖြစ်သူ ပါမောက္ခရိုင်းဒေးဗစ်သည် သက္ကရာဇ်–၁၂၃၇ (အေဒီ ၁၈၇၇)ခုနှစ်က မိမိ၏ဆရာဖြစ်သူ ပါမောက္ခ အာ စီ ချိုင်းဒါး (Prof. Robert Ceasar Childers)*၁ ပြုစုခဲ့သော ပါဠိဘာသာဝေါဟာရအဘိဓာန်*၂ ၏အက္ခရာစဉ်ပုံနှင့် အနက်ဖွင့်ပုံတို့ ပြည့်စုံမှုမရှိဟု မှတ်ယူမိသည့်အတွက် လန်ဒန်ပါဠိကျမ်းစာအသင်းကြီးက ပါဠိအဘိဓာန်သစ်တစ်စောင်ပြုစုရန် ရည်ရွယ်လျက် သက္ကရာဇ်–၁၂၄၄ (အေဒီ–၁၈၈၂)ခုနှစ်မှစ၍ ပါဠိပညာရှင်များအား တာဝန်ခွဲဝေယူစေလျက် ပါဠိဝေါဟာရများကိုစုဆောင်းစေခဲ့သည်။*၃

ထိုစဉ်က ပါဠိအဘိဓာန်ပြုစုရာ၌ အက္ခရာစဉ်အလိုက် ဝေပုံကျတာဝန်ယူခဲ့ကြသော ပညာရှင်ကြီးများမှာ–

၁။ 'သရ' အက္ခရာများကို ပါမောက္ခ ကွန်း (Khon)၊

၂။ 'က' အက္ခရာကို ပါမောက္ခဒူရွိုင်ဇဲလ် (Chas. Duroiselle)၊

၃။ 'စ' အက္ခရာမှ 'ည'အက္ခရာကို ဒေါက်တာရောစ် (W.H.D. Rouse)၊

၄။ 'ဋ' အက္ခရာမှ 'န'အက္ခရာကို ပါမောက္ခ ဆာ ဝင်းဒစ်ချ်(E. Windisch)၊

၅။ 'ပ'၊ 'ဖ'အက္ခရာကို ပါမောက္ခ ဂိုင်းဂါ (William Geiger)၊

၆။ 'ဗ'၊ 'ဘ'၊ 'မ'အက္ခရာကို ဒေါက်တာမေဗယ်ဘိုဒ် (Mabel H. Bode)၊

၇။ 'ယ' အက္ခရာ မှ 'ဝ'အက္ခရာကို ပါမောက္ခ အင်ဒါဆင် (Dines Andersen)၊

၈။ 'သ'၊ 'ဟ'အက္ခရာကို ဒေါက်တာ စတင် ကိုနို (Sten Konow)– တို့ဖြစ်ကြသည်။*၄

ထိုပညာရှင်ကြီးများမှာ လန်ဒန်မြို့မှာပင်စုဝေးနေကြခြင်းမဟုတ်ဘဲ အင်္ဂလန်၊ ဂျာမန်၊ ဟော်လန်၊ ပြင်သစ်နှင့် ပါမောက္ခဒူရွိုင်ဇဲလ်ဆိုလျှင် မြန်မာနိုင်ငံ မန္တလေးမြို့မှာ နေထိုင်လျက်ရှိပေသည်။

သက္ကရာဇ်–၁၂၇၆ (အေဒီ–၁၉၁၄)ခုနှစ် ပထမကမ္ဘာစစ်ကြီးဖြစ်လာသော် ထိုစစ်ကြီးအတွင်း၌ လန်ဒန်ပါဠိကျမ်းစာအသင်းကြီး၏အလွန်အားထားရသော ပါမောက္ခ ဗင်ဆင် ဖော့ဘော် (Vincent

*၁ R.C. Childers သည် ပါမောက္ခရိုင်းဒေးဗစ်ထက် ဦးစွာသီဟိုဠ်သို့ရောက်ရှိလာ၍ ပါဠိစာပေကိုလည်း ဦးစွာသင်ယူခွင့်ရခဲ့သူဖြစ်သည်။

*၂ Robert Caesar Childers' A Dictionary of The Pali Language. Kean Paul, Trench, Trubner & Co., Ltd., London, 1909.

*၃ ဒိန်းမတ် (Denmark) နိုင်ငံမှ ပါဠိပညာရှင် V. Trenckner (အေဒီ ၁၈၂၄–၁၈၉၁)သည်လည်း ၁၈၅၅–ခုနှစ်ဝန်းကျင်ခန့်က ပါဠိအဘိဓာန်ကိုပြုစုရန် ကြံရွယ်ဖူးပါသည်။ V. Trenckner ပင်ဦးဆောင်၍ နောင်အခါ A Critical Pāli Dictionary ကို ပြုစုခဲ့ပါသည်။ CPD, Vol I, 1924-26. Page-VII.

*၄ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၈၈)။ ထိုပညာရှင်များဝေပုံကျ တာဝန်ယူရသော ပါဠိပုဒ်များနှင့်စပ်လျဉ်း၍ ပါဠိကျမ်းစာအသင်းဂျာနယ်များ၌ ဖော်ပြထားသည့်အချက်နှင့် လယ်တီဦးလုတင်၏ဖော်ပြချက်တို့မှာ အနည်းငယ်စီကွဲလွဲနေပါသည်။

မန္တလေး-နဂရေ
စိုးရိမ်-၄ထ-သံဃာရာမေ
ဇုဝဏ္ဏမေထ-မေတာဈုဋ္ဌက-ဗိတာရေ-ဝသေနဋ်
ဘဒ္ဒန္တ-သောဘာဘိဿိရိ-နာမေန
စိုးရိမ်ဆရာတော်-ဗုဒ္ဓိ-ဝိသုဒ္ဓေန-ဒဌေမေထာနာထမဏ္ဏေရန
ဗိရဇိတံ

## သဒ္ဒတ္ထရတနာဝလိနာမကံ
## မဟာပါဠိအဘိဓာနံ

ပဌမော ဘာဂေါ
အ-ကာရာဒိ-အတ္တိမ္ဗ ပဒ-ပရိယောသာနော
ဝဌေဝရိဓေဓါ

ဘဒ္ဒန္တ-ဥာဏ-နာမေန
ဝဏ္ဏေကျော်-ဗုဒ္ဓိ ကိတ္တိမေယန စေတေထေရန
ဗိတေသာဓေတွာ ဇုဠ္ဌိဗိတံ

နာနာဂန္ထနိဿယ-သာထနာနုဋ္ဌထက-သဓေဝဝေန
ဝဏ္ဏာဘိတံ

ရန်ကုန်နဂရေ ရွှေလ-စေတိယ-ပတိဋ္ဌိတေ မဟာအဒ္ဓုသေ
လောကသာရ-ယန္တာလယေ
ဤသဏ္ဌာဗျာဒိက-စတုသတ ဖွဲ့သဟာသ သာသနဝသေ နဝုတျာဒိက-ဖွဲ့သတေကသဟသ-
မြန်မာသက္ကရာဇ် စိတြမာသေ မုဒ္ဒိတံ

မန္တလေး-နဂရေ
စိုးရိမ်-၄ထ-သံဃာရာမေ
ဇုဝဏ္ဏမေထ-မေတာဈုဋ္ဌက-ဗိတာရေ ဝသေနဋ်
ဘဒ္ဒန္တ-သူရိယ-နာမေန
စိုးရိမ်ဆရာတော်-ဗုဒ္ဓိ-ဝိသုဒ္ဓေန မေတာနာထမဏ္ဏေရန
သဓိရိတံ

## သဒ္ဒတ္ထရတနာဝလိနာမကံ
## မဟာပါဠိအဘိဓာနံ

ဒုတိယော ဘာဂေါ
(က-ကာရာဒိ-ကာမေသုသညိတ-ပဒ-ပရိယောသာနော)
ဝဌေဝရိဓေဓါ

ဘဒ္ဒန္တ-ဥာဏ-နာမေန
ဝဏ္ဏေကျော်-ဗုဒ္ဓိကိတ္တိမေယန စေတေထေရန
ဗိတေသာဓေတွာ ဇုဠ္ဌိဗိတံ

နာနာဂန္ထနိဿယ-သာထနာနုဋ္ဌထက-သဓေဝဝေန
ဝဏ္ဏာဘိတံ

ရန်ကုန်-နဂရေ ရွှေလေ-စေတိယ-ပတိဋ္ဌိတေ မဟာအဒ္ဓုသေ
လောကသာရ-ယန္တာလယေ
—···—
ဇေတ္တနုဝုတျာဒိကဖွဲ့သတေကာသဟသသာဝဏ္ဏရေ
စိတြမာသေ မုဒ္ဒိတံ

မန္တလေး-နဂရေ
မစိုးရိမ်-၄ယ-သံဃာရာမေ
သုဝဏ္ဏမယ-မဟာဂုဠ္ဌက-ဗိဟာရေ ဝသန္တေန
ပဌမကျော်-ဗုဒ္ဓိ ကိတ္တိတေန အဂ္ဂမဟာပဏ္ဍိတောတိ လဒ္ဓဘာဝလဉ္ဆနေန
ဘဒ္ဒန္တဉာဏနာမေန မဟာထေရေန
ဗိရဗိတွာ ဗိသောဓေတွာ မုဒ္ဒါပိတံ

## သဒ္ဒတ္ထရတနာဝလိနာမကံ
## မဟာပါဠိအဘိဓာနံ

တသ တတိယဘာဂေ
ပ-ကာရာဒိ ပတ္တိ-ပဒပရိယောသာနော
ပဌမပရိစ္ဆေဒေါ

နာနာဂန္ထနိဿယ-သာသနာနုဂ္ဂဟက-သမာဂမေန ပကာသိတံ



ရန်ကုန်နဂရေ ဓမ္မိကဓေဝင်မိုင်-ဗုဒ္ဓ ပိဋကရေ မဟာအဒ္ဓသေ
သုဓမ္မဝတီ ယန္တာလယေ မုဒ္ဒိတံ
ဇဋ္ဌနဝုတျာဒိက-ဒွိသတေကသဟဿ-မြန်မာဝဿရေ အဆီတျာဒိက-တေသတ-ဒွိသဟဿ
သာသနဝဿေ မာဃမာသေ မုဒ္ဒိတံ

မန္တလေး-နဂရေ
စိုးရိမ်-၄ထ-သံဃာရာမေ
ဇုဝဏ္ဏမေထမေတာဈုဋ္ဌထဗိတာရေ ဝသေနဋ်
အနုနာ ရန်ကုန်နဂရေ ဘုရားဖြူသံဃာရာမေ ဝါဝိဝထိနာ
ဘဒ္ဒန္တ ရေဝတ္ထနေမြုရေန
ဘုရားဖြူဆရာတော်-ဗုဒ္ဓိ-ဝိသုဒ္ဓေန-ဂဏဝါစကာစေတာဓေထရေန
ဗိရဗိတံ

## သဒ္ဒတ္ထရတနာဝလိနာမကံ
## မဟာပါဠိအဘိဓာနံ

တသံ စတုတ္ထဘာဂေ
ယ-ကာရာဒိ-လောဠိသာဒိ-ပဒ-ပရိယောသာနော
ဝဌေဝရိဓေဓါ

ဘဒ္ဒန္တ-ဥာဏ-နာမေန
ဝဏ္ဏေကျော်-ဗုဒ္ဓိ ကိတ္တိမေယန စေတေထေရန
ဗိတေသာဓေတွာ ဇုဠ္ဌိဗိတံ

နာနာဂန္ထနိဿယ-သာထနာနုဋ္ဌဟထ-သဓေဝဝေန
ဝဏ္ဏာဘိတံ

ရန်ကုန်နဂရေ-ရွှေလေစေတိယပတိဋ္ဌိတေ-မဟာအဒ္ဓုသေ
လောကသာရ-ယန္တာလယေ
အသဏ္ဌာဗျာဒိက-စတုသတ-ဖွဲ့သဟသ-သာသနဝသေ စဘုနဝုတျာဒိက-ဖွဲ့သတေကသဟသသာ
မြန်မာသက္ကရာဇ် စိတြမာသေ မုဒ္ဒိတံ

လယ်တီဆရာတော်ကြီးဦးစီး၍ မန္တလေးမြို့ မစိုးရိမ်စာချနာယကဆရာတော်တို့ပြုစုခဲ့ကြသော
မဟာပါဠိအဘိဓာန်ကျမ်းကြီးလေးတွဲ၏ မျက်နှာဖုံးပုံများ။

Fausboll)၊ ပါမောက္ခ ဖီယာ (Leon Feer)၊ ပါမောက္ခ အက်ဒမန်ဟာဒီ(E. Hardy)၊ ပါမောက္ခ မင်နယက် (J.P. Minayeff)၊ ပါမောက္ခမောရစ် (Richard Morris)၊ ဗိုလ်ချုပ်ကြီးစထရောင်း (General D.M. Strong)၊ ပါမောက္ခ ထရင်းကားနား (V. Trenckner)၊ ပါမောက္ခဝါရင်း (Henry C. Warren)နှင့် ပါမောက္ခ ဝင်ဇ်လ် (H.Wenzel) တို့ကွယ်လွန်ခဲ့လေရာတွင် ပါမောက္ခရိုင်းဒေးဗစ်သည် မိမိ၏ အဘိဓာန်ကြီးအတွက် အင်အားများဆုတ်ယုတ်ကုန်ပြီဟု စိတ်ဓာတ်ကျဆင်းနေခဲ့သည်။

ဤအချိန်တွင် လယ်တီဆရာတော်ဘုရားကြီးနှင့်အဆက်အသွယ်ရကာ ယမိုက်ပါဠိတော်၊ ကထာဝတ္ထုပါဠိတော်တို့ကို တည်းဖြတ်နိုင်ခဲ့သောအခါ မိမိပြုစုလတ္တံ့ဖြစ်သော ပါဠိအဘိဓာန် ကြီးကိုလည်း ဆရာတော်ဘုရားကြီးထံမှအကူအညီတောင်းခံရသော် သင့်လေစွဟုအကြံရလျက် ပါမောက္ခရိုင်းဒေးဗစ်နှင့် လန်ဒန်ပါဠိဒေဝီတို့သည် လယ်တီဆရာတော်ဘုရားကြီးထံသို့ မိမိတို့ ပြုစုလက်စဖြစ်သော ပါဠိအဘိဓာန်ကြီးအတွက် အကူအညီပေးသနားတော်မူပါရန် လျှောက်ထား ခဲ့ကြလေသည်။

လယ်တီဆရာတော်ဘုရားကြီးကလည်း လန်ဒန်ပါဠိဒေဝီမောင်နှံတို့၏ ပန်ကြားချက်ကို ငြင်းပယ်ရန်အချိန်မဟုတ်သော်လည်း မိမိ၏သက်တော်မှာ(၇၀)၊ ဇရာဒုဗ္ဗလအရွယ်ဖြစ်၍ စက္ခု တော်မှာလည်း ရှေးယခင်ကဲ့သို့မကောင်းလှသည့်အတွက် ပိဋကတ်တော်နှင့်တကွ အဋ္ဌကထာ တို့တွင်ပါသော ပုဒ်အထူးစုံလင်လှသည့် ပါဠိအဘိဓာန်ကျမ်းကြီးတစ်ဆောင်ကို ပြုစုဖို့အရေးမှာ လွယ်ကူသောကိစ္စကားမဟုတ်၊ သို့သော်ငြားလည်း ထိုအဘိဓာန်ပြုစုရန်အတွက် စွမ်းနိုင်သော ပုဂ္ဂိုလ်ကိုရှာဖွေစဉ်းစားတော်မူရာ၊ မစိုးရိမ်ကျောင်းတိုက်ကြီးမှ စာချဆရာတော်ကလေးဦးသောမ၊ ပဋ္ဌမကျော်ဦးသုရိယ၊ ပဋ္ဌမကျော်ဦးဉာဏတို့ကိုတွေ့ရှိတော်မူလေ၏။*၁

သို့ဖြစ်၍ လယ်တီဆရာတော်ဘုရားကြီးသည် မစိုးရိမ်တိုက်သို့ကြွတော်မူပြီးလျှင် 'လန်ဒန် ပါဠိအသင်းကြီး၏အကြောင်းနှင့်တကွ မိမိ၏နိုင်ငံခြားသာသနာပြုအသင်းအကြောင်း'တို့ကို အမိန့် ရှိတော်မူပြီးလျှင် 'မိမိပြုစုလိုသော အဘိဓာန်ကြီးကို ကူညီကြပါရန်' မေတ္တာရပ်ခံတော်မူလေသည်။ မစိုးရိမ်နာယကကိုယ်တော်လေးတို့မှာလည်း 'ပညာရှိများဝန်းရံနေတော်မူသော လယ်တီဆရာ တော်ဘုရားကြီးက မိမိတို့ကဲ့သို့ နုနယ်သေးသူတို့အား ယခုကဲ့သို့ အဘိဓာန်ကျမ်းကြီးတစ်စောင် ပြုစုလာရန်မေတ္တာရပ်ခံခြင်းမှာ ခက်ခဲလှပါကြောင်း'စသည်ဖြင့် ငြင်းပယ်လျှောက်ထားခဲ့ကြသည်။

လယ်တီဆရာတော်ဘုရားကြီးသည် မစိုးရိမ်တိုက်သို့ သုံးကြိမ်တိုင်အောင်ကြွရောက်တော် မူပြီး– 'ငါ့ရှင်တို့သာ စွမ်းဆောင်နိုင်မည်ကို သိသဖြင့် တိုက်တွန်းရခြင်းဖြစ်သည်'–ဟု မိန့်တော် မူလေရာ၊ မစိုးရိမ်နာယကဆရာတော်တို့မှာ မငြင်းပယ်နိုင်တော့ဘဲ လက်ခံခဲ့ရပါသည်။ သို့သော် မစိုးရိမ်ဆရာတော်ကလေးတို့က 'လယ်တီတိုက်တွင် စာတတ်များပေါများပါလျက် တပည့်တော် တို့ကို အဘယ်ကြောင့် လာ၍တာဝန်ပေးပါသနည်း'ဟု မမေးဝံ့ဝံ့နှင့် မေးလျှောက်သောအခါ ဆရာတော်ဘုရားကြီးက–

*၁ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၈၉)။

'လယ်တီမှာ စာတတ်ရှိသည်။ သို့သော် တစ်ပါး,နှစ်ပါးသာရှိသည်။ မစိုးရိမ်ကျောင်းမှာကား အစုအဝေးနှင့်ရှိပေသည်။ ယခုကိစ္စမှာ တစ်ဦးကောင်းနှင့်လုပ်ဆောင်၍မပြီးနိုင်။ သို့ဖြစ်၍ မစိုးရိမ်သို့ တာဝန်ပေးရခြင်းဖြစ်သည်'-ဟု ရှင်းလင်းအမိန့်ရှိတော်မူပါသည်။

ထိုသောအခါ မစိုးရိမ်နာယကဆရာတော်တို့မှာကျေနပ်ကြလျက် ပါဠိအဘိဓာန်ကြီးပြုစုရန် 'ပါဠိအဘိဓာနသဟကာရီနိကာယ'အဖွဲ့ကို ဖွဲ့စည်းလေ၏။ ထိုအဖွဲ့၏နာယကမှာ လယ်တီဆရာတော်ဘုရားကြီးဖြစ်ပါသည်။

၁။ ပဌမနာယက – ဦးသောမာဘိသီရိ (သာသနနယူပဒေသကျောင်း)၊

၂။ ဒုတိယနာယက – ဦးသူရိယ (ပါဠိနယူပဒေသကျောင်း)၊

၃။ ဘာရနိတ္ထာရက (ဝန်ဆောင်)– ဦးဉာဏ(မာဂဓနယူပဒေသ)တို့ဖြစ်ကြသည်။

ထို့နောက် အဘိဓာန်ပြုစုရေး၏ကမ္မကာရက(အလုပ်အမှုဆောင်)အဖွဲ့ကိုဖွဲ့ကြရာ–

၁။ ဆရာတော်ဦးရာဇိန္ဒ [*၁] (ပရိယတ္တိနယူပဒေသကျောင်း)၊

၂။ ဦးပညာဘိဝံသ (အဘိဓမ္မနယူပဒေသ)၊

၃။ ဦးဇဝန (အာဂမနယူပဒေသ)၊

၄။ ဦးဝိသုဒ္ဓ (မာဂဓနယူပဒေသ)၊

၅။ ဦးပညာသီဟ [*၂] (သုတ္တန္တနယူပဒေသ)၊

၆။ ဦးအာသဘ (နိကာယနယူပဒေသ)၊

၇။ ဦးဇောတိပါလ (ပရိယတ္တိနယူပဒေသ)၊

၈။ ဦးအာသဘ (ဝိနယနယူပဒေသ)၊

၉။ ဦးမုနိန္ဒ [*၃] (ဓမ္မနယူပဒေသ)၊

၁၀။ ဦးကောသလ္လ (နိရုတ္တိနယူပဒေသ)–တို့ဖြစ်ကြပြီး၊ ထက်မြက်သောစာသင်သား(၃၀၀)ကျော်တို့လည်းပါဝင်ကြလေ၏။ [*၄]

မစိုးရိမ်နာယကများပါဝင်၍ ရေးသားပြုစုကြမည့် အဘိဓာန်ကြီး၏အမည်ကို 'သဒ္ဒတ္ထရတနာဝလိမဟာပါဠိအဘိဓာန်ကြီး' [*၅] ဟုတွင်ခေါ်စေလျက် ပါဠိပုဒ်ကို ပါဠိဘာသာဖြင့်ပင်ဖွင့်ဆိုပြီး

---

*၁ နောင်အခါ ရန်ကုန်မြို့ ဗိုလ်တထောင်မြို့နယ် ဘုရားဖြူကျောင်းတိုက်ဆရာတော်ကြီးဖြစ်သည်။

*၂ နောင်အခါ ပဌမကျော်ဆရာကြီးဦးကြီးဖေ၊ သာသနာညွှန်ကြားရေးဝန်ဖြစ်သည်။

*၃ နောင်အခါ စစ်ကိုင်းတောင်ရိုး အသောကာရုံဆရာတော်ကြီးဖြစ်သည်။

*၄ အရှင်ရာဇဓမ္မာဘိဝံသ၏ ဘဒ္ဒန္တ သူရိယာဘိဝံသ၏ထေရုပ္ပတ္တိကထာ။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ–၅၁၊ ၅၂)။

*၅ ဤ သဒ္ဒတ္ထရတနာဝလိမဟာပါဠိအဘိဓာန်ကြီးသည် လယ်တီဆရာတော်ဘုရားကြီး ဘဝနတ်ထံစံလွန်တော်မူပြီးသည့်နောက်တွင် အတွဲ ၄–တွဲ ပုံနှိပ်နိုင်ခဲ့ပါသည်။ ယင်းအတွဲ ၄–တွဲတို့မှာ– (၁) အတွဲ–၁ ကို 'အ'မှ 'အဋ္ဌိဒ္ဓ' အထိ ၁၉၂၈–ခုနှစ်တွင်လည်းကောင်း၊ (၂) အတွဲ–၂ ကို 'က'မှ 'ကာမောဃသညိတ'အထိ ၁၉၂၇–ခုနှစ်တွင်လည်းကောင်း၊ (၃) အတွဲ–၃ ကို 'ပ'မှ 'ပဂုံဠ'အထိ ၁၉၃၇–ခုနှစ်တွင်လည်းကောင်း၊ (၄) အတွဲ–၄ ကို 'ယ'မှ 'လောဠိသာမိ'အထိ ၁၉၃၂–ခုနှစ်တွင်လည်းကောင်း အသီးသီးပေါ်ထွက်လာကြပါသည်။

ပါဠိ၊ အဋ္ဌကထာ၊ ဋီကာ စာကိုးသာဓကများကိုပါ အပြည့်အစုံထည့်သွင်း၍ ပြုစုရေးသားရန်ဆုံးဖြတ်ခဲ့ကြ၏။

အဘိဓာန်ပြုစုရေးအဖွဲ့ဝင်များသည် ရှေးဦးစွာ နိကာယ်ငါးရပ်ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာများ၊ ကေက္ခရကောသစသော သဒ္ဒါကျမ်းများ၊ မဂဓ၊ သက္ကတစသော ဘာသာစကားအဘိဓာန်ကျမ်းများစွာတို့မှ ရနိုင်သမျှပုဒ်တို့ကို စာကိုးသာဓကများနှင့်တကွ ရှေးဦးစွာစုဆောင်းကြ၏။ ထိုသို့ပုဒ်စုကြရာတွင် ပုဒ်တစ်ပုဒ်ကို စက္ကူတစ်ချပ်ကျရေးမှတ်ပြီး ထိုပုဒ်နှင့်စပ်ဆိုင်သော ထုတ်နုတ်ရာကျမ်းအမည်၊ စာမျက်နှာ၊ ပေဖြစ်လျှင် အင်္ဂါ၊ စာကြောင်းရေတို့ကို မှတ်သားထုတ်နုတ်စုဆောင်းလာရာ၊ မကြာမီမှာပင် ပုဒ်ပေါင်း(၂၃၈၀၂၅) နှစ်သိန်းကျော်ရရှိလေသည်။ ထိုပုဒ်နှစ်သိန်းကျော်မှ အက္ခရာဝလိစဉ်ပြီး ပုဒ်တူရာကိုနုတ်ပယ်ပြီးသော် ပုဒ်ပေါင်းတစ်သိန်းကျော်(၁၂၇၈၀၀)အသားတင်ရရှိလေ၏။ ထိုပုဒ်တို့နှင့်တကွ သံဝဏ္ဏေတဗ္ဗပုဒ်၊ ပဒဘာဇနီယပုဒ်၊ ဓမ္မဘာဇနီယပုဒ်-စသည် အရပ်ရပ်စုပေါင်းလျှင် ပုဒ်ပေါင်းလေးသိန်းကျော်(၄၈၄၈၀၅)ကိုစုဆောင်းမိ၏။

လယ်တီဆရာတော်ဘုရားကြီးသည် မန္တလေးမြို့၊ မစိုးရိမ်တိုက်သို့ မကြာခဏကြွရောက်တော်မူပြီးလျှင် အဘိဓာန်ပြုစုကြပုံကို ကြည့်ရှုတော်မူပါသည်။ အလျား ၈-ပေ၊ အနံ ၆-ပေကျယ်ဝန်းသော ခုတင်ကြီးထက်၌ အထု ၂-ပေခွဲအပြည့်တင်ထားသော ပုဒ်ကတ်ပြားချပ်ရေလေးသိန်းကျော်ကိုမြင်ရသောအခါ- 'အဘိဓာန်လုပ်ငန်းဆိုတာ အလွန်ခက်ခဲသော သာသနာပြုလုပ်ငန်းကြီးပေပဲကွဲ့၊ သာမန်ပုဂ္ဂိုလ်တို့၏အရာမဟုတ်ပေဘူး၊ အဘိဓာန်ရေးဖို့မဆိုထားနှင့် ပုဒ်စုဖို့တောင်မလွယ်ပေဘူး'ဟု မိန့်တော်မူပါသည်။

အဘိဓာန်ဝန်ဆောင်ဆရာတော်က- ထိုမျှပုဒ်ထုတ်ပြီးဖြစ်သော်လည်း ယခုတိုင်အောင် ပုဒ်များမှာ ထုတ်ယူ၍မကုန်သေးကြောင်း လျှောက်ထားသောအခါ ပါဠိပုဒ်တို့၏ကျယ်ဝန်းပုံကို အံ့သြချီးကျူးမိန့်ဆိုတော်မူပါသည်။

နိုင်ငံခြားသာသနာပြုအသင်းလူကြီးများအားခေါ်ယူပြီး အဘိဓာန်လုပ်ငန်းကို ကြောင့်ကျစိုက်ထုတ်စေ၏။ အဘိဓာန်ရေးသားစဉ်မှစ၍ ထိုပုဒ်လေးသိန်းရသည်အထိ ငွေကျပ် ၁၃၃၃၃-ကျပ်ထုတ်ယူ၍ အသုံးပြုစေတော်မူခဲ့ပါသည်။ ဝန်ဆောင်ဆရာတော်ဦးဉာဏအား လစဉ်ဆွမ်းဆန်တော်စရိတ် ၃၀/-၊ မစိုးရိမ်အဘိဓာန်အဖွဲ့ဝင်ကိုယ်တော်အားလုံးအတွက် လစဉ်ဆွမ်းဆန်တော်စရိတ် ၂၀၀/-ကိုလည်း မပြတ်မလပ်ထောက်ပံ့ကြရန် အစဉ်သတိပေးတော်မူပါသည်။*၁

## သံဝေဂမဖြစ်ကြနဲ့ဦး

လယ်တီဆရာတော်ဘုရားကြီးသည် အဘိဓာန်လုပ်ငန်းကိစ္စအတွက် မစိုးရိမ်တိုက်၌ ကျိန်းစက်တော်မူသောအခါတွင် ဆရာတော်ဘုရားကြီးနှင့်တကွ ဓမ္မကထိက ဦးဝဏ္ဏိတသည်လည်း လိုက်ပါလေ့ရှိသည်။

တစ်ညတွင် အလယ်တိုက်ကြီးအောက်ထပ်၌ ဓမ္မကထိကဦးဝဏ္ဏိတအား ဦးသူရိယက- 'ဦးဝဏ္ဏိတ၊ ကိုယ်တော်တို့ တရားဟောကောင်းလှတယ်လို့ သတင်းကြားရပါတယ်၊ တပည့်တော်

*၁ အရှင်ရာဇဓမ္မာဘိဝံသ၏ ဘဒ္ဒန္တ သူရိယာဘိဝံသ၏ ထေရုပ္ပတ္တိကထာ။ ၁၉၇၆-ခုနှစ်။ (စာမျက်နှာ-၅၄၊ ၅၅)။

တို့ကို သံဝေဂဖြစ်အောင်ဟောစမ်းပါ'ဟု တောင်းပန်ပြီး တရားနာကြ၏။ ဦးဝဏ္ဏိတကလည်း 'ကိုယ်တော်တို့ အဘိဓမ္မာတွေ စာတွေ ဒီလောက်တတ်နေတာ သံသရာဘေးကြီးမကြောက်ဘဲ ကိုး'ဟု ဆိုလေ၏။ ထိုအခါ ဦးသူရိယက 'မကြောက်လို့ သည့်လိုနေတာပေါ့ဘုရား'ဟုဆိုလျှင်၊ ဦးဝဏ္ဏိတက 'မကြောက်ရင် ဟောရသေးတာပေါ့'ဟုမိန့်ဆိုကာ သံဝေဂါထာများကိုဟောလေသည်။ အတန်ကြာလျှင် ဦးဝဏ္ဏိတက 'ကဲ–ကိုယ်တော် ကြောက်ပြီလား'ဟုမေးရာ၊ ဦးသူရိယက 'တပည့်တော်ဖြင့် မကြောက်မိသေးပါ'ဟုအဖြေပေးသည့်အတွက် ဦးဝဏ္ဏိတမှာ တရားပွဲကို ရုပ်သိမ်းခဲ့ရသည်။

နံနက်လင်း၍ ထိုအကြောင်းကို လယ်တီဆရာတော်ဘုရားကြီး သိတော်မူသောအခါတွင်– 'မောင်ဝဏ္ဏိတကလဲ ဝေနေယျရွှာသယ မသိဘဲကိုးကွဲ့။ မစိုးရိမ်ဆရာတော်ကလေးများကလဲ ဒီအရွယ် ဒီပညာတွေနဲ့ သံဝေဂမဖြစ်ပါနဲ့ဦး၊ တပည့်တော် တောင်းပန်ပါတယ်။ ဆရာတော်လေးတို့နဲ့တွဲပြီး ပရိယတ္တိသာသနာပြုစရာတွေ အများကြီးကျန်ပါသေးတယ်၊ အသက်ငါးဆယ် ကျော်လို့မှ သံဝေဂမဖြစ်သေးရင် တပည့်တော်ဟောပေးပါ့မယ်၊ ယခုတော့ အဘိဓာန်ကိစ္စကြီး ပြီးစီးအောင် ကြိုးစားကြပါဦး'ဟု မိန့်ကြားတော်မူပါသည်။*၁

## အတုယူဖွယ်များစွာ

လယ်တီဆရာတော်ဘုရားကြီးသည် မန္တလေးမြို့ မစိုးရိမ်တိုက်ကြီးအတွင်း၌ သဒ္ဒတ္ထရတနာဝလိအဘိဓာန်ကျမ်းကြီးပြုစုရေးကိစ္စအတွက် ခေတ္တသီတင်းသုံးနေတော်မူစဉ် အတူသီတင်းသုံးနေခွင့်ရသော မစိုးရိမ်ဆရာတော်ကလေးသုံးပါးမှာ ဆရာတော်ဘုရားကြီးထံမှ နည်းရပညာယူ အတုယူဖွယ်များစွာကိုလည်း လေ့လာမှတ်သားခွင့်ရခဲ့ကြသည်။ မစိုးရိမ်အဓိပတိဆရာတော်ကလေးသုံးပါးသာမက ထိုစဉ်က မစိုးရိမ်တိုက်ရှိ စာချဂဏဝါစကပုဂ္ဂိုလ်တို့သည်လည်း လယ်တီဆရာတော်ကြီးထံမှ နည်းခံရယူခဲ့ကြသည်ပင်ဖြစ်တော့သည်။

တစ်ကြိမ်သောအခါက လယ်တီဆရာတော်ဘုရားကြီးသည် မစိုးရိမ်တိုက်၌သီတင်းသုံးနေစဉ်အတွင်း မန္တလေးမြို့လေးပြင်လေးရပ်၌ ညစဉ်တရားပွဲများကျင်းပရာ တရားပွဲအသီးသီးမှ ရသမျှအလှူဝတ္ထုပစ္စည်းများမှာ ကျောင်းကြီးတစ်ကျောင်းနှင့်မဆံ့လောက်အောင် များမြောင်နေပေသည်။ သက်န်းတို့မှာ ခန်းပြည့်လှူတစ်ရပ်ခန့်ရှိလေသည်။ ဆရာတော်ကလေးဦးသူရိယသည် မိမိပစ္စည်းဆိုလျှင် စာရင်းမှတ်လေ့မရှိသော်လည်း ဤပစ္စည်းများမှာ မိမိတို့ကျောင်းပိုင်မဟုတ်၊ အာဂန္တုဖြစ်တော်မူသော လယ်တီဆရာတော်ဘုရားကြီး၏ပစ္စည်းဖြစ်၍ အသေအချာ စာရင်းနှင့်တကွ မှတ်သားသိမ်းဆည်းပေးထား၏။ လယ်တီဆရာတော်ဘုရားကြီးသည် မုံရွာသို့ပြန်မည့်အခါတိုင်အောင် ထိုပစ္စည်းများနှင့်စပ်၍ မည်သို့မျှအမိန့်မရှိ။ ဆရာတော်ဘုရားကြီး ဘူတာရုံသို့ ကြွသွားသည့်တိုင် မည်သို့မျှအမိန့်မရှိခဲ့ပေ။ သို့နှင့် ဆရာတော်ကလေးဦးသူရိယသည် ဘူတာရုံသို့ကြွသွားပြီး ဆရာတော်ဘုရားကြီးအား ထိုပစ္စည်းများနှင့်စပ်၍ ဖွင့်ဟလျှောက်ထားသောအခါ ဆရာတော်ဘုရားကြီးက 'ဩော်–မစိုးရိမ်ဆရာတော်လေးနှယ်၊ ဒါအတွက် တပည့်တော်ကို

*၁ အရှင်ရာဇဓမ္မာဘိဝံသ၏ ဘဒ္ဒန္တ သူရိယာဘိဝံသ၏ထေရုပ္ပတ္တိကထာ။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ–၁၄၅)။

လျှောက်ထားနေသေးသကိုး၊ သင့်တော်သလိုစီမံ၍ ပရိယတ္တိကိုယ်တော်များအား ခွဲဝေလှူဒါန်းလိုက်ပါ'ဟူ၍ မိန့်တော်မူလေသည်။ ဤသို့ဖြင့် လယ်တီဆရာတော်ဘုရားကြီး၏ 'ပစ္စည်းမသို' ဟူသော စိတ်ဓာတ်အလေ့အမူသည် မစိုးရိမ်ဆရာတော်ကလေး၏စိတ်နှလုံး၌ ထိုအခါမှစ၍ ကူးစက်ပျံ့နှံ့ခဲ့ရလေတော့သည်။ *၁

လယ်တီဆရာတော်ဘုရားကြီးကလည်း မစိုးရိမ်တိုက်အတွင်း၌ သီတင်းသုံးနေတော်မူစဉ် မစိုးရိမ်ဆရာတော်ကလေးများကို အစဉ်အကဲခတ်နေတော်မူလေ့ရှိပါသည်။ မစိုးရိမ်ဆရာတော်ကလေးများသည် သာသနဝေယျာဝစ္စ, သံဃဝေယျာဝစ္စပြုမှုတို့၌ ချို့တဲ့နေကြောင်းသတိပြုတော်မူလေသည်။ တစ်နေ့ ဆွမ်းစားဝိုင်းတွင် ဆရာတော်ဘုရားကြီးက 'ဆရာတော်လေးတို့ သာသနာနဲ့တွေ့တုန်းကြုံတုန်း သာသနဝေယျာဝစ္စ, သံဃဝေယျာဝစ္စများ ပြုလုပ်ကြပါရဲ့လား' ဟူ၍ မိန့်တော်မူရာ၊ မစိုးရိမ်ဆရာတော်ကလေးတို့မှာ တစ်ပါးမျက်နှာ တစ်ပါးကြည့်လျက် မိမိတို့ချွတ်ယွင်းမှုအတွက် ထုပူသွားတော်မူကြသည်။ ထိုအခါ လယ်တီဆရာတော်ကြီးက–

'ဆရာတော်လေးတို့ သံသရာမှာ သားကျွန်မယားကျွန်ဖြစ်ခဲ့ပေါင်း ဘဝများလှပြီ၊ သာသနာ့ကျွန်, သံဃာ့ကျွန်ဆိုတာ သာသနာနှင့်တွေ့တုန်းမှာခံရတာ၊ အခွင့်သင့်လို့ သာသနာနဲ့တွေ့ကြုံတုန်း သံဃာ့ကျွန်, သာသနာ့ကျွန် များများခံရတယ်ဆရာတော်လေးတို့ရဲ့'–ဟူ၍ ဩဝါဒစကားချီးမြှင့်တော်မူပါသည်။

ထိုအခါမှစ၍ မစိုးရိမ်ဆရာတော်လေးများသည် လယ်တီဆရာတော်ဘုရားကြီး၏ဩဝါဒကိုနာယူပြီး သံဃာ့ကျွန်ကြိုးစား၍ခံခဲ့ကြ၏။ သံဃာတော်များသောက်ရန် ရေခပ်၍ သံဃာ့ကျွန်ခံကြ၏။ တစ်ခါတစ်ရံ ကနုတ်ဆေး၍လည်း သံဃာ့ကျွန်ခံခဲ့ကြပါသည်။ *၂

ထို့ပြင် လယ်တီဆရာတော်ဘုရားကြီးသည် တောရဆောက်တည်ကာနေတော်မူလေ့ရှိသော အရညဝါသီမဟာထေရ်ဖြစ်တော်မူသည်နှင့်အညီ မစိုးရိမ်တိုက်၌သီတင်းသုံးသည့်အခိုက် တောရကောင်းကြောင်းတို့ကို ညစဉ်ဟောပြောတော်မူလေ့ရှိပါသည်။ 'သက်တော်ငါးဆယ်ကျော်လျှင် တောရဆောက်တည်ဖြစ်အောင် ဆောက်တည်ကြ'ဟူသော ဩဝါဒနှင့် တောရဆောက်တည်ခြင်းအကျိုးကျေးဇူးကို ဆရာတော်ဘုရားကြီးဟောကြားလေ့ရှိသဖြင့် မစိုးရိမ်ဆရာတော်ကလေးဦးသောမသည် နောင်သောအခါ မစိုးရိမ်တိုက်တာကြီးကိုစွန့်၍ စစ်ကိုင်းတောင် မဟာသစ်ဝင်ချောင်သို့လည်းကောင်း၊ *၃ ဆရာတော်ကလေးဦးသူရိယသည်လည်း နောင်သောအခါ စစ်ကိုင်းတောင် ဇေတဝန်အောက်ဆေးတိုက်နှင့် နံ့သာချောင်၊ မင်းကွန်းတောင်ရိုး ရှားပင်ချောင်နှင့် ဓမ္မသာရချောင်–စသည်တို့၌ လယ်တီဆရာတော်ဘုရားကြီးအားအတုလိုက်၍ တောရဆောက်တည်တော်မူခဲ့ကြပါသည်။ *၄

---

*၁ အရှင်ရာဇဓမ္မာဘိဝံသ၏ ဘဒ္ဒန္တ သူရိယာဘိဝံသ၏ ထေရုပ္ပတ္တိကထာ။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ–၁၁၈)။

*၂ ယင်း။ (စာမျက်နှာ–၁၄၇)။

*၃ ဆရာတော်ဦးသောမသည် သက္ကရာဇ်–၁၂၈၇ (အေဒီ–၁၉၂၅)ခုနှစ် သက်တော် ၄၈–နှစ်တွင် တောရဆောက်တည်ခဲ့ပါသည်။ ယင်း။ (စာမျက်နှာ–၆၂၊ ၆၃)။

*၄ ဆရာတော်ဦးသူရိယသည် သက္ကရာဇ်–၁၃၀၁ (အေဒီ–၁၉၃၉)ခုနှစ် သက်တော်–၆၀ ခန့်တွင် တောရဆောက်တည်ခဲ့ပါသည်။ ယင်း။ (စာမျက်နှာ–၈၉)။

## လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်

## [အဋ္ဌမပိုင်း]

## အဂ္ဂမဟာပဏ္ဍိတနှင့် ဒီလစ်ဘွဲ့ရဆရာတော်ဘုရားကြီးဘဝ

## (သက္ကရာဇ် ၁၂၇၇–သက္ကရာဇ် ၁၂၈၅)*၁

### ငြိမ်းလေတော့မည့်မီးရှူးတန်ဆောင်

သက္ကရာဇ်–၁၂၇၇ (အေဒီ–၁၉၁၅)ခုနှစ်တွင် ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် သိက္ခာဝါအားဖြင့်(၅၀)၊ သက်တော်အားဖြင့်(၇၀) ပြည့်ပြီးကြွယ်ခဲ့ပြီဖြစ်သည်။ သိက္ခာဝါ(၅၀)၊ သက်တော်(၇၀)ပြည့်သောအချိန်တွင် လယ်တီဆရာတော်ဘုရားကြီး၏စက္ခုတော်ဝေဒနာမှာ သက်သာသည်ဟူ၍မရှိဘဲ ရှေးအခါက စာလုံးအက္ခရာမမြင်ရသဖြင့် စာမဖတ်နိုင်ရုံ,စာမရေးနိုင်ရုံမျှသာ၊ ယခုအခါ၌ စာကိုမဆိုထားဘိ ခပ်လှမ်းလှမ်းတစ်လံ, နှစ်လံအကွာမှ လူပုဂ္ဂိုလ်ကိုပင်သဲသဲကွဲကွဲမမြင်ရတော့ပေ။ ဤသို့ စက္ခုတော်ဝေဒနာခ,လျက် သက်တော်ရွယ်တော်ကြီးရင့်လာသောအခါ ဆရာတော်ဘုရားကြီးသည် 'ငါ သက်တော်ရွယ်တော်ကြီးပြီ၊ ဆောင်ရွက်ဆဲဖြစ်သောသာသနာပြုလုပ်ငန်းအဝဝကိုရပ်နားပြီးဘဝ၏နေဝင်ချိန်ကို တိုက်တာအုပ်ချုပ်ရေးမှစ၍ အခြားမည်သည့်ကိစ္စကိုမျှမဖက်၊ သမထဝိပဿနာဘာဝနာအားထုတ်ခြင်းသက်သက်ဖြင့်သာ အေးအေးနေထိုင်သွားတော်မူတော့မည်' ဟူ၍ ကြံညာခြင်းလည်းမရှိခဲ့၊ မိမိဆောင်ရွက်တော်မူလျက်ရှိသော သာသနာရေးရာလုပ်ငန်းဆောင်တာအဝဝတို့ကို ဤတစ်ဘဝ တစ်သံသရာဆုံးသည့်တိုင် မရပ်မနားဆောင်ရွက်တော်မူခဲ့ပါသည်။

ဆရာတော်ဘုရားကြီးသည် တိုက်တာအုပ်ချုပ်မှုစသော ပလိဗောဓကိုသက်တော်(၅၀)ကျော်စအခါကပင် ဖြတ်တောက်ခဲ့ပြီးဖြစ်၍ ဆရာတော်ဘုရားကြီး၌ တွယ်ငြိစရာကိုယ်ပိုင်တိုက်တာဟူ၍မရှိခဲ့သည်မှာ ကာလကြာမြင့်ခဲ့ပေပြီ။ သို့လျှင် ကြီးမားသောဂရုဘဏ်,လဟုဘဏ် ကျောင်းအာရာမ်တိုက်တာစသည်ငြိတွယ်စရာမရှိသော ဆရာတော်ဘုရားကြီးအဖို့မှာ အခြားနှစ်သက်တွယ်တာသိမ်းဆည်းစရာဟူ၍ ဘာမျှရှိတော့မည်မဟုတ်ပေ။ သက်နီးစသောပစ္စည်းလာဘ်လာဘမှာ ရခဲ့လျှင်လည်း ဤမြို့မှာရသောပစ္စည်းလာဘ်လာဘကို ဤမြို့မှာပင်ဝေခြမ်းခဲ့ပြီဖြစ်သည်။ အခြားတစ်ပါးသောမြို့ရွာသို့ သယ်ဆောင်ခြင်းအလေ့ရှိတော်မမူပေ။

---

*၁ အေဒီ ၁၉၁၅–ခုနှစ်၊ ဧပြီလမှ အေဒီ ၁၉၂၃–ခုနှစ်၊ ဇူလိုင်လအထိဖြစ်သည်။

ဆရာတော်ဘုရားကြီးသည် ထိုခေတ်ထိုအခါက ကျောင်းကန်အများဆုံးဖြစ်ပေါ်ခဲ့သော ဆရာတော်ဘုရားကြီးဖြစ်ပါသည်။ ဆရာတော်ဘုရားကြီးသီတင်းသုံးတော်မူရာ ဌာနအသီးအသီး တို့၌ ကျောင်းဒါယကာများပေါ်ပေါက်လျက် ကျောင်းကန်တိုက်တာများကိုဆောက်လုပ်လှူဒါန်း ထားခဲ့ကြပြီးဖြစ်သည်။ ထင်ရှားသောဌာနကြီးများမှာ– (၁) မုံရွာမြို့မှာ မဟာလယ်တီတောရတိုက်၊ (၂) မန္တလေးမြို့မှာ ရတနာပုံလယ်တီစံကျောင်း၊ (၃) ပျဉ်းမနားမြို့မှာ လယ်တီစံကျောင်း၊ (၄) စစ်ကိုင်းမြို့မှာ ဇေတဝန်မဟာလယ်တီစံကျောင်း၊ (၅) ရန်ကုန်မြို့မှာ ညောင်ကုန်း လယ်တီစံကျောင်း၊ (၆) မြစ်သားမြို့မှာ လယ်တီစံကျောင်းနှင့် ထိုထိုသောတောတောင်အရပ် တို့မှာလည်း စကြံကျောင်းများစွာတို့ကို လယ်တီဆရာတော်ဘုရားကြီးအတွက် လယ်တီစံကျောင်း၊ လယ်တီစကြံကျောင်း–စသည့်အမည်အမျိုးမျိုးဖြင့် ဆောက်လုပ်ထားရှိကြပြီဖြစ်လေသည်။ ထိုထိုသောကျောင်းကန်တိုက်တာတို့၌ ဆရာတော်ဘုရားကြီးသည် ကျောင်းဒါယကာများ ကုသိုလ် တိုးပွားစေရန် တစ်ကျောင်းလျှင် တစ်ဝါတစ်ရှည်, ရံခါ နှစ်ဝါခန့် သီတင်းသုံးနေခဲ့ပြီး ဝါမှထ,လျှင် တပည့်တစ်ဦးဦးကို ဝိနည်းကံနှင့်အညီ စွန့်လွှတ်ခဲ့ပြီးဖြစ်လေသည်။ ပမာအားဖြင့် မုံရွာမြို့ မဟာလယ်တီတောရကို အရှင်ဉာဏောဘာသ၊ ပျဉ်းမနားမြို့ လယ်တီစံကျောင်းကို အရှင်ဧယျ၊ မန္တလေးမြို့ ရတနာပုံလယ်တီစံကျောင်းကို အရှင်ဝဏ္ဏိတ၊ ရန်ကုန်မြို့ လယ်တီစံကျောင်းကို အရှင်ဇာဂရစသည်ဖြင့်စွန့်လှူခြင်းမျိုးဖြစ်သည်။ အချို့သောကျောင်းကိုကား သံဃိကအဖြစ်အလှူခံ ခဲ့ရာ အထူးစွန့်ဖွယ်မရှိ။ ပမာအားဖြင့် ပျဉ်းမနား အင်ကြင်းမြိုင်စကြံကျောင်း၌ 'သံဃိက'ဟူ၍ ရေးထားခြင်းမျိုးဖြစ်ပြီး၊ ထိုကျောင်းအတွက် ကျောင်းထိန်းပုဂ္ဂိုလ်ဟု အသီးအခြားမတွေ့ရပေ။ ထို့အတူ ပြည်မြို့ဝိပဿနာတောရရှိ စကြံဂူကျောင်းတွင် 'သာသနာ'ဟူ၍ ကမ္ပည်းတင်ထားသဖြင့် 'သာသနာတော်သုံးရပ်နှင့်စပ်၍'အလှူခံယူတော်မူခဲ့ကြောင်း ထင်ရှားနေပေသည်။

ဆရာတော်ဘုရားကြီးသည် အနေအထိုင်ကျောင်းဝိဟာဘက်က တွယ်တာမှုကင်းသကဲ့သို့ ဆွမ်းကွမ်းစသော အစာအာဟာရဘက်ကလည်း အာဟာရဖြစ်ရုံမျှသာ၊ ရသတဏှာ၏ဆိုးဝါး ယုတ်မာပုံကို ကိုယ်တော်တိုင် နေရာဌာနမရွေး, ရှင်လူပုဂ္ဂိုလ်မရွေးတို့အား ဟောကြားနေတော် မူသည်ဖြစ်၍ သက်လွတ်ကိုသာဘုဉ်းပေးတော်မူတော့၏။ အသီးအပွင့် အရွက်အညွန့်တို့ကိုသာ ဆက်ကပ်စေခဲ့သည်။

ဤကာလအပိုင်းအခြားအတွင်း သာသနာကြီးပွားရေး၊ လောကကြီးပွားရေး၊ သတ္တဝါများ အား ဘေးအပေါင်းမှကယ်တင်ရေးစသောလုပ်ငန်းအဝဝကို မရပ်မနားဆောင်ရွက်တော်မူခဲ့ရာ မေးဖွယ်ရှိသည်မှာ 'ဆရာတော်ဘုရားကြီးသည် မိမိပြုရမည့်ကိစ္စသည် ပြီးပြည့်စုံသောကြောင့် သတ္တဝါတို့အကျိုးကို အချိန်ပြည့်ဆောင်ရွက်တော်မူနေခြင်းလော'ဟူသော မေးခွန်းပင်ဖြစ်သည်။

စင်စစ် ဆရာတော်ဘုရားကြီးသည် မူလကအရာရာကိုစွန့်ပစ်နိုင်သော, စွန့်ပစ်ခဲ့သော ဥပေက္ခာသမားကြီးအဖြစ် တောရခိုဝင်ကာ မိမိ၏ပဓာနလုပ်ငန်းအရပ်ရပ်ကို မနေမနားကြိုးပမ်း တော်မူခဲ့သောဆရာတော်ဘုရားကြီးဖြစ်ပါသည်။ ထိုစဉ်အခါကပင် ဆရာတော်ဘုရားကြီးသည် မိမိကိုအားကိုးနေကြသော၊ မိမိနှင့်ဆက်စပ်လျက်ရှိသော တပည့်များ၊ ဆွမ်းအမ ဆွမ်းအဖ,

ကျောင်းအမ ကျောင်းဒကာမှစ၍ အားလုံးသောတပည့်ဒါယကာများကိုပင် သူတို့၏ကံအတိုင်းသာ ရှိစေတော့–ဟူသော ဥပေက္ခာတရားလက်ကိုင်ထားတော်မူ၍ စွန့်ပစ်ခဲ့ခြင်းဖြစ်ပါသည်။ ဤသို့ အရာရာစွန့်ပစ်၍ ကိုယ်ရေးကိုယ်တာကြိုးပမ်းတော်မူရာ၌ ခရီးဆုံးတိုင်လမ်းပေါက်ခဲ့သည်၊ မပေါက်ခဲ့သည်ကိုကား ကာယကံရှင်ဆရာတော်ဘုရားကြီးမှတစ်ပါး အခြားမည်သူတစ်ဦး တစ်ယောက်မျှ ကြံတွေး၍ မှန်းဆရ၊ ကြလိမ့်မည်မဟုတ်ပေ။

ဤသို့ အရာရာကိုစွန့်လွှတ်ခဲ့၍ ဥပေက္ခာတရားကိုလက်ကိုင်ထားတော်မူသော ဆရာတော်ဘုရားကြီးသည် 'သတ္တဝါတွေကပ်ဘေးသင့်သတဲ့၊ သတ္တဝါတွေ သာသနာနဲ့ကြုံကြသော်လည်း အခွင့်အရေးတွေဆုံးပါးနေသတဲ့၊ ကမ္ဘာမှာ ဗုဒ္ဓဘာသာသာသနာထွန်းကားရေးအတွက် လမ်းစများ ပေါ်ထွန်းနေသဖြင့် ယခုအချိန်သည် သာသနာတော်ကြီးပွားရေးအတွက် ဆောင်ရွက်ဖွယ် အကောင်းဆုံးဖြစ်သတဲ့' စသည့်အကြောင်းကိစ္စများပေါ်ပေါက်လာသောအခါ တောရမြိုင်ခွင်၌ မိမိအားထုတ်လက်စ ပဓာနလုပ်ငန်းကိစ္စတို့ကိုခေတ္တချထားပြီး မြို့ကျောင်းသို့ပြန်လည်ခိုဝင်ကာ သတ္တဝါများကို ကပ်ဘေး အမျိုးမျိုးမှထုတ်ဆောင်ကယ်တင်ခဲ့သည်။ တရားဓမ္မများဟောပြောပြသ ခဲ့သည်။ စာပေကျမ်းဂန်များ သီကုံးရေးဖွဲ့ခဲ့သည်။ နိုင်ငံတွင်းနိုင်ငံပ သာသနာပြုသော အသင်း အဖွဲ့အမျိုးမျိုးကို ဖွဲ့စည်းတည်ထောင်ပေးခဲ့သည်။ ဤသို့အားဖြင့် သတ္တဝါတို့အပေါ်၌ ဆရာတော်ဘုရားကြီးထားအပ်သောမေတ္တာကား တုနှိုင်းဖွယ်မရှိပါတကား။ စင်စစ်ဆရာတော်ကြီးပွားများ အပ်သောမေတ္တာတရားသည်ကား မိမိအတွက်သာမဟုတ်၊ အများအကျိုးအတွက် ဖြည့်ကျင့် ဆည်းပူးအပ်သော ပါရမီကျင့်စဉ်တစ်ရပ်ဖြစ်ကြောင်းမှာ ထင်ရှားနေပါသည်။

ဆရာတော်ဘုရားကြီးသည် ဤသို့လျှင် သတ္တဝါအများအား ကယ်တင်ရာ၌၊ တရားဓမ္မ ဟောကြားရာ၌၊ စာပေကျမ်းဂန်များရေးသားရာ၌ 'ငါ၏တပည့်ရင်းတွေအတွက်'ဟု မိမိနှင့် ဆက်စပ်သောပုဂ္ဂိုလ်များကိုသာ ဦးတည်ရည်မှန်းတော်မူခဲ့ပုံမရ။ အလုံးစုံသောပုဂ္ဂိုလ်တွေ (တစ်နည်း) မိမိနှင့်ဆက်စပ်သောပုဂ္ဂိုလ်တို့သာမက မဆက်စပ်ခဲ့သောပုဂ္ဂိုလ်ဝေနေယျတို့ကိုပါ ရည်ရွယ်လျက် အညီအမျှစိတ်ထားလျက် ဆောင်ရွက်တော်မူခဲ့ခြင်းဖြစ်ပါ၍ ဆရာတော်ဘုရား၏ နှလုံးသား၌ ကျင့်သုံးဆောက်တည်အပ်သော ဥပေက္ခာတရားသည် မေတ္တာအသွင်ထက်မြင့်မား အလုံးစုံသော သတ္တဝါတို့၌ ဝေရီ၊ မဇ္ဈတ္တ၊ ပိယ–စသည်ဝေခွဲမှုမရှိ အားလုံးကိုအညီအမျှထားကာ ရှုလတ်သည့်ဟန်အမူဖြင့် ပွင့်ထွန်းပေါ်ပေါက်လာခဲ့ခြင်းဖြစ်ကြောင်း ဤနေရာ၌ပြက်ပြက်ထင်ထင် တွေ့ကြရပါပြီ။

ထိုထိုသော သာသနာပြုလုပ်ငန်းကိစ္စများကိုလည်း ဆရာတော်ဘုရားကြီးသည် ဆောင်ရွက်ရုံ မျှသာ။ အကယ်၍ ဆောင်ရွက်ဖွယ်ကိစ္စမရှိတော့ဟုဆိုပါလျှင် ထိုမရှိသောနေ့မှာပင် မိမိ၏ကိစ္စ အတွက် တောရပ်မြိုင်ခွင်သို့ နေ့ချင်းညချင်းခိုဝင်တော်မူခဲ့ပြီးဖြစ်နေပါသည်။ အရာရာနှင့်ရောနှော နေပါသော်လည်း အရာရာ၌ငြိတွယ်ခြင်း အလျဉ်းရှိတော်မမူသည်မှာ အထင်အရှားဖြစ်ပါသည်။ သို့ကြောင့်ပင် ဤကာလအတွင်း အင်္ဂလိပ်အစိုးရက လူ့ဒါန်းဆက်ကပ်သော လောကီပညာဘက် က အမြင့်မားဆုံးဟုဆိုအပ်သော ဒီလစ် (D.Litt.) ဘွဲ့၊ လောကုတ္တရာစာပေ ဘက်ကအမြင့်မားဆုံး ဆိုသော အဂ္ဂမဟာပဏ္ဍိတဘွဲ့တို့ကို စုံစုံမက်မက်အလှူမခံယူခဲ့ရုံသာမက ယနေ့တိုင် ထိုဘွဲ့

ကဒ်ပြား, ထိုဘွဲ့လက်မှတ်စသည်တို့ မည်သည့်နေရာသို့ရောက်နေမှန်းမသိအောင်ပင် တွယ်ငြိခြင်းကင်းခဲ့လေစွတကား။ ငြိမ်းလေတော့မည့် မီးရှူးတန်ဆောင်ကြီးသဖွယ်ဖြစ်ပေသော ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီး၏ သက်တော်(၇၀)ကျော်ဘဝခရီးတာကာလ၌ ဤအပိုင်းဤကဏ္ဍများကို ကြည်ညိုစဖွယ် ဖူးတွေ့ရှုမြင်ကြရပါမည်။

အဂ္ဂမဟာပဏ္ဍိတတံဆိပ်ဆက်ကပ်ပွဲ

လွန်ခဲ့သောနှစ် ၁၂၇၆–ခု၊ ဝါဆိုလ(အေဒီ ၁၉၁၄–ခုနှစ်၊ ဇွန်လ)ကထုတ်ဝေသော ဓမ္မဒေသနာတရားသတင်းစာတွင် 'မြန်မာလူမျိုးပညာရှိတို့အား ဘွဲ့အမည်အရည်ပေးအပ်၊ ရိက္ခာတော်ထောက်ပံ့ရန်အကြောင်း' ဟူသောခေါင်းစဉ်ဖြင့် အိန္ဒိယဘုရင်ခံချုပ်က ပါဠိဘာသာ၊ သက္ကတဘာသာ တစ်ဖက်ကမ်းခတ်တတ်မြောက်သူတို့အား အဂ္ဂမဟာပဏ္ဍိတဘွဲ့ ပေးသနားချီးမြှင့်လိမ့်မည်၊ ၎င်းဘွဲ့ပေးသနားချီးမြှင့်ခြင်းခံရသူမှာ လူဖြစ်လျှင် တစ်နှစ်လျှင်ပင်စင် ၁၀၀/–၊ ဘုန်းကြီးရဟန်းဖြစ်လျှင် နှစ်စဉ်သော်လည်းကောင်း, လစဉ်သော်လည်းကောင်း တစ်နှစ်လျှင် ငွေ ၁၀၀/–တန်ဖိုးရှိအောင် ဆွမ်းဆန်လှူဒါန်းလိမ့်မည်၊ အဂ္ဂမဟာပဏ္ဍိတဘွဲ့နှင့် ဘွဲ့ရသူ၏ အမည်ပါတံဆိပ်တစ်ခုလည်းပေးလိမ့်မည်' စသည်ဖြင့်သတင်းတစ်ရပ်ပါရှိခဲ့သည်။ ဤသတင်းပါရှိပြီး မကြာမီမှာပင် အိန္ဒိယ၊ သီဟိုဠ်တို့တွင် ထူးချွန်သောပညာရှင်တို့အား မဟာမဟော်ပဏ္ဍိတရေနှင့် သျှံစုလမ–စသည့်ဘွဲ့များပေးအပ်ခဲ့ပြီးဖြစ်သည်။[*၁] ထို့နောက် အင်္ဂလိပ်အစိုးရသည် မြန်မာနိုင်ငံအတွင်း၌ရှိကြသော ရဟန်းပညာရှိနှင့် လူပညာရှိ ဆယ့်တစ်ဦးတို့အား အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်ချီးမြှင့်ရန် ထုတ်ပြန်ကြေညာခဲ့ပါသည်။ ဤသို့ဘွဲ့ပေးအပ်ရခြင်း၏အကြောင်းမှာ အိန္ဒိယနိုင်ငံ၊ ဒေလီမြို့တွင်ကျင်းပသော ပဉ္စမဂျော့ဘုရင် (King George V)၏ ရာဇအဘိသေက မင်္ဂလာပွဲအထိမ်းအမှတ်အဖြစ် ပေးအပ်ခဲ့ခြင်းဖြစ်သည်။[*၂]

အဂ္ဂမဟာပဏ္ဍိတဘွဲ့ရပုဂ္ဂိုလ်တို့တွင် ဆရာတော်ကြီးဆယ်ပါးနှင့် လူပုဂ္ဂိုလ်တစ်ဦးပါဝင်နေကြောင်း အောက်ပါအတိုင်းတွေ့ရပါသည်။

၁။ မန္တလေးမြို့ – မဟာဝိသုဒ္ဓါရာမဆရာတော်ဦးဝိသုဒ္ဓါစာရ၊
၂။ မန္တလေးမြို့ – သုဓမ္မာဝင် မင်္ဂလာစံကျောင်းဆရာတော်ဦးနန္ဒ၊
၃။ မန္တလေးမြို့ – သံဃနာယက မောက်ကျိုးဆရာတော်ဦးကဝိန္ဒ၊

---

*၁ ဓမ္မဒေသနာတရားသတင်းစာ။ အတွဲ–၆၊ အမှတ်–၆၈။ ၁၉၁၄–ခုနှစ်၊ ဇွန်လ။ (စာမျက်နှာ–၂၂)။

*၂ တောင်ခွင်သာသနာပိုင်ဆရာတော်၏ မဟာသံဃရာဇာသာသနာပိုင်ဆရာတော်ထုတ်ဆင့်တော်မူသည့် ဥပဒေနှင့် အရပ်ရပ်အမိန့်တော်စာတမ်းများပါဝင်သည့် ဝိနယဝိနိစ္ဆယ။ မြန်မာတရာသတင်းစာတိုက်၊ မန္တလေးမြို့။ ၁၉၂၆–ခုနှစ်။ (စာမျက်နှာ–၆၉)။ ပဉ္စမဂျော့ဘုရင်နှင့်မေရီမိဖုရားတို့သည် အေဒီ ၁၉၁၀–ပြည့်နှစ်၊ မေလ(၆)ရက်နေ့တွင် ခမည်းတော်၏အရိုက်အရာကိုဆက်ခံကာ အင်္ဂလန်နိုင်ငံ၌ ရာဇာဘိသိက်ခံယူတော်မူခဲ့ပြီးဖြစ်ပါသည်။ သို့ပါသော် အိန္ဒိယပြည်ကိုအုပ်ချုပ် စိုးမိုးနိုင်ခဲ့ပြီဖြစ်သောကြောင့် အိန္ဒိယနိုင်ငံရှိ (၅၆၅)ပါးသော မဟာရာဇာများကို အသိပေးလိုသောသဘောဖြင့် အေဒီ ၁၉၁၁–ခုနှစ်၊ ဒီဇင်ဘာလတွင် အိန္ဒိယနိုင်ငံ၌ ဒုတိယအကြိမ် ရာဇာဘိသိက်ခံယူခြင်းဖြစ်လေသည်။ မြန်မာနိုင်ငံသည်လည်း အင်္ဂလိပ်တို့၏ အင်ပါယာကြီးအတွင်း ပါဝင်ခဲ့ပြီဖြစ်၍ ထိုဂျော့ဘုရင်၏ ရာဇာဘိသိက်အခမ်းအနားသို့ မြန်မာနိုင်ငံမှကိုယ်စားလှယ်အဖြစ် ညောင်ရွှေစော်ဘွား၊ ပုဂံဝန်ထောက်ဦးတင်တို့တက်ရောက်ကြရသည်။ မောင်သန်းဆွေ၏ ရတနာဂီရိနိဒါန်း။ ရာပြည့်စာအုပ်တိုက်၊ ရန်ကုန်မြို့။ ၂၀၀၇–ခုနှစ်။ (စာမျက်နှာ–၁၇၄၊ ၂၂၉)။

# လယ်တီဆရာတော်ကြီးနှင့်အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် တစ်ချိန်တည်းရတော်မူသောပုဂ္ဂိုလ်များ


ရန်ကုန်မြို့ပထမငါးထပ်ကြီးဆရာတော်


ရန်ကုန်မြို့သံယုတ်ဆရာတော်


ရန်ကုန်မြို့ပထမစလင်းဆရာတော်


ပါဠိဆရာဦးဖြေ


မန္တလေးမြို့မဟာဝိသုဒ္ဓါရုံဆရာတော်

၄။ မန္တလေးမြို့ – သုဝဏ္ဏဝင် စိန်ပန်းဆရာတော်ဦးဇောတ၊
၅။ မန္တလေးမြို့ – ကျောက်ပန်းတောင်းဆရာတော်ဦးဂုဏ၊
၆။ ရန်ကုန်မြို့ – ဂိုဏ်းအုပ်ဆရာတော်ဦးအာသဘ၊
၇။ ရန်ကုန်မြို့ – ကြည့်မြင်တိုင်စလင်းဆရာတော်ဦးသီဟ၊
၈။ မုံရွာမြို့ – လယ်တီဆရာတော်ဦးဉာဏ၊
၉။ ရန်ကုန်မြို့ – သံယုတ်ဆရာတော်ဦးကုမာရ၊
၁၀။ ရန်ကုန်မြို့ – ဂိုဏ်းထောက်ဆရာတော်ဦးကောသလ္လ၊
၁၁။ မန္တလေးမြို့ – သံဃနာယကဆရာတော်ဦးခန္တီ နှင့်
၁၂။ ရန်ကုန်မြို့ – ပါဠိဆရာ ဆရာဖြေ–တို့ဖြစ်ကြပါသည်။

အထက်ဖော်ပြပါစာရင်းအရ စာပေပရိယတ်ကျော်ကြားသော ထေရ်ကြီးဝါကြီးဆို၍ မဟာဝိသုဒ္ဓါရုံဆရာတော်၊ စလင်းဆရာတော်၊ လယ်တီဆရာတော်၊ သံယုတ်ဆရာတော်တို့ကိုသာ တွေ့ရသည်။ အခြားသုဝဏ္ဏဝင် စံကျောင်းဆရာတော်၊ မောက်ကျိုးဆရာတော်၊ စိန်ပန်းဆရာတော်၊ ကျောက်ပန်းတောင်းဆရာတော်နှင့် ရန်ကုန်မြို့မှ ဂိုဏ်းအုပ်၊ ဂိုဏ်းထောက်စသော ဆရာတော်တို့မှာ တောင်ခွင်သာသနာပိုင်၏သံဃာ့အုပ်ချုပ်ရေး၌ ပါဝင်ရွက်ဆောင်နေကြသော ဆရာတော်များ ဖြစ်ဟန်တူလေသည်။ ပါဠိဆရာ ဆရာဖြေမှာ ရန်ကုန်ကောလိပ်၌အမှုထမ်းနေသဖြင့် ပါဠိစာပေ ကျွမ်းကျင်ကျနသည်ဟူသောသဘောဖြင့် ဘွဲ့ပေးခဲ့ဟန်တူလေသည်။ ဆရာဖြေသည် ဤဘွဲ့ရပြီးမှ ကျော်ကြားထင်ရှားလာသောပုဂ္ဂိုလ်ဖြစ်လေသည်။

မြန်မာနိုင်ငံအနေဖြင့် ရှေးရှေးသောမြန်မာမင်းများလက်ထက်တော်အခါက ရာဇဂုရုဘွဲ့တံဆိပ်တော်များဆက်ကပ်ခဲ့သော်ငြားလည်း၊ အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်အနေဖြင့်ကား ဤအကြိမ်သည် ပထမဆုံးအကြိမ်ဖြစ်သည်။*၁ အင်္ဂလိပ်အစိုးရ၏ ပထမဆုံးအကြိမ် အဂ္ဂမဟာပဏ္ဍိတတံဆိပ် ဆက်ကပ်ပွဲအခမ်းအနားကို သက္ကရာဇ် ၁၂၇၇–ခု၊ တန်ဆောင်မုန်းလဆန်း ၁–ရက် (အေဒီ–၇ နိုဝင်ဘာလ၊ ၁၉၁၅–ခုနှစ်) တနင်္ဂနွေနေ့တွင် မန္တလေးတောင်ခြေ ကျောက်တော်ကြီးဘုရား အရှေ့မုခ်တောင်ဘက် အမိုးသုံးထပ်စမြင်ပတ်လည်ချ ခုနစ်ဌာနအပါအဝင် သုဝဏ္ဏရွှေဇရပ်တော်၌ ကျင်းပခဲ့ပါသည်။

ထိုနေ့နံနက် ၇–နာရီတွင် သာသနာပိုင်တောင်ခွင်ဆရာတော်ကြီးသည် နောက်ပါရဟန်းတော် နှစ်ရာနှင့်အတူ အနောက်ပြင်တောင်ခွင်တိုက်မှ မြောက်ပြင်စံကျောင်းတိုက်သို့ ဝေါယာဉ်ဖြင့် ကြွချီတော်မူခဲ့ပါသည်။ ဆရာတော်ကို ယီးဖြူလေးလက်မိုး၍ ကျိုင်း၊ ယပ်မား(အရိုးရှည်ယပ်ကြီး)စသည်ကိုင်ဆောင်ထားသော အမှုထမ်းများကခြံရံ၍လိုက်ပါကြရသည်။ ထို့ပြင် မြင်းစီးပုလိပ် (၁၀)ယောက်အပါအဝင် ပုလိပ်အမှုထမ်း(၃၅)ယောက်တို့ကလည်း စောင့်ရှောက်လိုက်ပါရသည်။

---

*၁ ပုဂံခေတ်ကလည်း သဒ္ဒနီတိကျမ်းပြုဆရာဘွဲ့အမည် ရှင်အဂ္ဂဝံသသည် အဂ္ဂပဏ္ဍိတဘွဲ့ရဖူးကြောင်း– မေမြို့မိုးကြည်၏ ဘွဲ့တံဆိပ်တော်ရမဟာထေရ်ကြီးများ။ ဇော်မင်းစာပေ၊ ရန်ကုန်မြို့။ ၁၉၈၀–ပြည့်နှစ်။ (စာမျက်နှာ–၆)။





လယ်တီဆရာတော်ကြီး၏ အဂ္ဂမဟာပဏ္ဍိတတံဆိပ်တုံးနှင့်သေတ္တာ



SANAD

To

U Withokda,

Ingon Sayadaw,

Burma

I hereby confer upon you the title of Aggamahapandita as a personal distinction

Viceroy and Governor General of India

Delhi,

the 1st January 1915



မဟာဝိသုဒ္ဓါရုံဆရာတော်ကြီး၏ အဂ္ဂမဟာပဏ္ဍိတဘွဲ့လက်မှတ်




လယ်တီဆရာတော်ကြီး၏
အဂ္ဂမဟာပဏ္ဍိတတံဆိပ်တုံး




ဆရာကြီးဦးဖြေ၏
အဂ္ဂမဟာပဏ္ဍိတတံဆိပ်တုံး

နံနက် ၁၀–နာရီအချိန်တွင် သာသနာပိုင်ဆရာတော်ကြီးသည် စံကျောင်းတိုက်သို့ရောက်ရှိတော်မူပါသည်။ စံကျောင်းတိုက်၌ မိနစ်–၃၀ ခန့်ခေတ္တအနားယူတော်မူပြီးနောက် ခေတ္တသီတင်းသုံးရာ စံကျောင်းတိုက်မှ တောင်ဘက်ရှိ သုဓမ္မာကျောင်းတော်သို့ရွှေ့ပြောင်းသီတင်းသုံးတော်မူသည်။ ဆွမ်းကပ်ရန်အချိန်သို့ရောက်လျှင် မိုးနဲစစ်ကဲကြီးကတော်မခင်က သံဃာတော်အပါးငါးရာတို့ကို ဆွမ်းကပ်လှူပါသည်။

နေ့လည် ၂–နာရီအချိန်တွင်မှ အဂ္ဂမဟာပဏ္ဍိတတံဆိပ်တော် ဆက်ကပ်ပွဲပြုလုပ်မည့် သုဓမ္မာရွှေဇရပ်တော်သို့ သာသနာပိုင်ဆရာတော်ကြီး နောက်ပါရဟန်းငါးရာနှင့်တကွကြွတော်မူရာ အမြောက်(၁၁)ချက် ပစ်ဖောက်ဂုဏ်ပြုကြပါသည်။

အခမ်းအနားကျင်းပပုံအစီအစဉ်မှာ သာသနာပိုင်ဆရာတော်အတွက် စီမံထားသော ဖလ်ကုလားထိုင်ကြီးကို အလယ်မှာထားပြီး တစ်တန်းတည်းလက်ယာဘက်၌ အင်္ဂလိပ်အရာရှိကြီး ၄–ဦး၊ ကျောက်စာဝန်မစ္စတာတော်စိန်ခိုတို့အတွက် နေရာပြင်ဆင်ထားရှိ၏။ လက်ဝဲဘက်၌မူ အတုမရှိဆရာတော်၊ ခေမာသီဝံဆရာတော်၊ တပယင်းဆရာတော်၊ အရှေ့ပြင်ဌာနချုပ်ဆရာတော်နှင့် ဝက်မစွတ်ဝန်ထောက်တို့အတွက် နေရာပြင်ဆင်ထား၏။

သာသနာပိုင်ဆရာတော်၏ရှေ့တန်းတွင် တံဆိပ်လက်ခံကြမည့်ပုဂ္ဂိုလ်များအတွက် နေရာပြင်ဆင်ထားရှိရာ မဟာဝိသုဒ္ဓါရာမဆရာတော်၊ စံကျောင်းဆရာတော်၊ မောက်ကြိုးဆရာတော်၊ စိန်ပန်းဆရာတော်၊ ကျောက်ပန်းတောင်းဆရာတော်၊ အနောက်ခင်မကန်တိုက်အုပ်ဆရာတော်*၁ တို့မှာ သာသနာပိုင်၏လက်ယာဘက်တွင်လည်းကောင်း၊ ရန်ကုန်ဂိုဏ်းအုပ်ဆရာတော်၊ စလင်းဆရာတော်၊ လယ်တီဆရာတော်၊ သံယုတ်ဆရာတော်၊ ဂိုဏ်းထောက်ဆရာတော်၊ ဆရာဖြေတို့ကို သာသနာပိုင်၏လက်ဝဲဘက်တွင်လည်းကောင်း ထိုင်တော်မူကြရန် ခင်းကျင်းထားသည်။

ထိုအခမ်းအနားသို့ ရန်ကုန်မြို့က မြို့လူထုဆန္ဒမဲဖြင့် ရွှေတိဂုံဘုရားဂေါပကလူကြီးဖြစ်လာကြသော ဦးဘိုးသာ၊ ဦးဘိုးအောင်၊ ဦးနေဒွန်း၊ ဦးဘိုးကြင်၊ ဦးဘိုးလှ၊ ဦးမောင်ကြီးနှင့် မန္တလေးမြို့ မဟာမုနိဘုရားဂေါပကလူကြီးများ၊ မန္တလေးတောင်တော် ရသေ့ကြီးဦးခန္တီလည်း ကြွလာပြီး မင်းမျိုးမင်းနွယ်တို့၏နေရာတွင်ထိုင်ပါသည်။ အစုစုလူပရိသတ်ငါးရာကျော် ထိုအခမ်းအနားသို့ တက်ရောက်ကြပါသည်။

မန္တလေးမြို့ သမာဓိမြို့ဝန် သမားတော်ကြီးဦးကျော်ရန်က အခမ်းအနားမှူးပြုလုပ်လျက် သာသနာပိုင်ဆရာတော်အား လျှောက်ထားသောစာလွှာကိုဖတ်ကြားပါသည်။ တစ်ဖန် သာသနာပိုင်ဆရာတော်၏ပြန်ကြားလွှာကို ဂူကြီးဆရာတော်ကဖတ်ပြတော်မူပါသည်။ ရန်ကုန်မြို့ ရွှေတိဂုံဂေါပကဦးမောင်ကြီးက ထုတိမင်္ဂလာသြဘာစာဖတ်ကြားပါသည်။

အဂ္ဂမဟာပဏ္ဍိတတံဆိပ်တော်ဆက်ကပ်ပွဲသို့ ဘွဲ့တံဆိပ်ဆက်ကပ်တော်မူခြင်းခံရမည့် ရဟန်းရှင်လူတို့တွင် မန္တလေးမြို့ သုဓမ္မာဝင် မင်္ဂလာစံကျောင်းဆရာတော်၊ မောက်ကြိုးဆရာတော်၊

*၁ ဆရာတော်ဦးခန္တီ မှာဘွဲ့မဆက်ကပ်မီပျံလွန်တော်မူသောကြောင့် ခင်မကန်တိုက်အုပ်ဆရာတော်က ကိုယ်စားယူခြင်းဖြစ်သည်။

စိန်ပန်းဆရာတော်၊ ကျောက်ပန်းတောင်းဆရာတော်၊ သံဃနာယကဦးခန္တီ ကိုယ်စား ခင်မကန် တိုက်အုပ်ဆရာတော်နှင့် ပါဠိဆရာ ဆရာဖြေတို့ကြွရောက်ကြသော်လည်း– မဟာဝိသုဒ္ဓါရာမ ဆရာတော်၊ ရန်ကုန်မြို့ ဂိုဏ်းအုပ်ဆရာတော်ဦးအာသဘ၊ ကြည့်မြင်တိုင်ဆရာတော်ဦးသီဟ၊ မုံရွာမြို့ လယ်တီဆရာတော်ဦးဉာဏ၊ ရန်ကုန်မြို့ သံယုတ်ဆရာတော်နှင့်ဂိုဏ်းထောက်ဆရာတော် ဦးကောသလ္လ ဤဆရာတော် ၆–ပါးကား အခမ်းအနားသို့ကြွရောက်တော်မူခြင်းမရှိခဲ့ပေ။*၁

လယ်တီဆရာတော်ဘုရားကြီးသည် ထိုအချိန်က မန္တလေးမြို့၌သီတင်းသုံးနေတော်မူ သော်လည်း မြောက်ပြင်စံကျောင်းတိုက်၌ စာသင်ဖက်ဖြစ်သော တောင်ခွင်သာသနာပိုင်က 'အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်ကို မိမိထံသို့ကိုယ်တိုင်လာယူရမည်'ဟု စာပို့သည့်အတွက်–

'ပြည်ပိုင်အစိုးရမင်းတို့က မည်ကဲ့သို့ပညာအရည်အချင်းရှိသော ပုဂ္ဂိုလ်တို့အား မည်ကဲ့သို့ ဘွဲ့တံဆိပ်ကိုချီးမြှင့်သင့်သည်–ဟု ရွေးချယ်ပေးပါရန် ငါတို့ထံသို့ လျှောက် လွှာတစ်စောင်ရောက်ရှိလာ၍ ငါတို့ရွေးချယ်ပေးလိုက်သော အဂ္ဂမဟာပဏ္ဍိတဘွဲ့ကို ထူးထူးဆန်းဆန်းလုပ်၍ ကိုယ်တိုင်လာရောက်ယူရမည်ဟု သာသနာပိုင်အမိန့်သံ ပြင်းထန်လှချေရဲ့၊ ငါတို့မယူလို'–ဟူ၍အမိန့်ရှိတော်မူပြီးလျှင် အင်းဝမြို့သို့ တရားပွဲ ချီးမြှင့်ရန်ကြွသွားတော်မူခဲ့ပါသည်။*၂

ဖြူးသို့

သက္ကရာဇ် ၁၂၇၇–ခုနှစ်၊ တန်ဆောင်မုန်းလ (အေဒီ–၁၉၁၅၊ နိုဝင်ဘာလနှင့်ဒီဇင်ဘာလ) လယ်တီဆရာတော်ဘုရားကြီးသည် တပည့်သေက္ခတောင်ဦးတိလောကနှင့်အတူ ဖြူးမြို့မှ တရား ဟောပင့်သောကြောင့် ကြွတော်မူပါသည်။ ဖြူးမြို့သို့ရောက်လျှင် ရှေးဦးညများတွင် လယ်တီ ဆရာတော်ဘုရားကြီး တရားဟောကြားတော်မူပါသည်။ တရားပွဲနောက်ဆုံးညတွင် ဆရာတော် ဘုရားကြီးက ဦးတိလောကကိုယ်တော်အား ဇရားအဟောခိုင်း၏။ ဦးတိလောကသည် ၃၂–ကောဋ္ဌာသပုံကားချပ်ကို ချိတ်ဆွဲပြထားပြီး ၃၂–ကောဋ္ဌာသတရားကို ဟောကြားတော်မူလေရာ၊ တရားနာပရိသတ်များသည် ကိုယ်တွင်းမမြင်နိုင်သည့် ရှိသမျှကောဋ္ဌာသတို့ကို ရုပ်ပုံနှင့်တကွ မြင်ရ၊ ဟောကြားတော်မူသည်ကို ကြားကြရသဖြင့် များစွာသဘောကျကြလေသည်။*၃

ပုဂံမြို့သို့

လယ်တီဆရာတော်ဘုရားကြီးသည် ၁၂၇၇–ခုနှစ်၊ တပို့တွဲလ (အေဒီ ၁၉၁၆–ခုနှစ်၊ ဖေဖော် ဝါရီလ)တွင် ပုဂံနယ်ပိုင်ဝန်ထောက်မင်းဦးတင်၏ပင့်လျှောက်ချက်အရ ပုဂံမြို့သို့ကြွတော်မူပါသည်။

---

*၁ ဦးမာနိတသိရီဘိဝံသနှင့် ဦးနန္ဒမာလာဘိဝံသတို့၏ စံကင်းဆရာတော်။ (စာမျက်နှာ ၁၈၉–၁၉၂)။

*၂ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၆၇)။ ဤအဂ္ဂမဟာပဏ္ဍိတဘွဲ့ကို ဆရာတော်ဘုရားကြီးတပည့် ဦးရေဝတ၊ ဦးကျော်ရန်နှင့် ဦးမောင်မောင်တင်တို့ သွားရောက်ယူထားကြသည်ဟု အမှတ် အသားရှိသည်။ မေမြို့မိုးကြည်၏ ဘွဲ့တံဆိပ်တော်ရမဟာထေရ်ကြီးများ။ ၁၉၈၀–ပြည့်နှစ်။ (စာမျက်နှာ–၂၅)။

*၃ ဦးစိန်နိုင်၏ မဟာထေရာစိတ္တဇာတ်တော်။ (စာမျက်နှာ–၅၄)။

ပုဂံနယ်ပိုင်ဝန်ထောက်ဦးတင်[*၁] သည် ကင်းဝန်မင်းကြီး၏လက်အောက်တွင် အသက် ၁၅–နှစ်အရွယ်ကပင် စာရေးတော်အဖြစ်အမှုထမ်းခဲ့ရာ လယ်တီဆရာတော်ဘုရားကြီးအားလည်း ထိုစဉ်အခါကပင်သိရှိပြီးဆည်းကပ်ခဲ့ပါသည်။ ဆရာတော်ဘုရားကြီးအလိုရှိရာကိစ္စများကို ဦးတင် က ဆောင်ကြဉ်းပေးလေ့ရှိပါသည်။ ပမာအားဖြင့် ပုဂံမြို့ အာနန္ဒာဘုရားမြောက်မုခ် အရှေ့ဘက်ရှိ နတ်ရုပ် ၁၄–ရုပ်၊ တောင်မုခ်အရှေ့ဘက်ရှိ နတ်ရုပ် ၁၄–ရုပ်၊ နှစ်ရပ်ပေါင်းနတ်ရုပ် ၂၈–ရုပ် (အဋ္ဌဝီသတိယက္ခသေနာပတိ)တို့၏စာရင်းကို မဟာသမယသုတ်ပါဠိတော်လာနတ်စစ်သူကြီး ၂၈–ပါးနှင့် နှိုင်းယှဉ်လေ့လာရန် စာရင်းပြုထားပြီး လယ်တီဆရာတော်ဘုရားကြီးထံတင်ပို့ခြင်းမျိုး ဖြစ်သည်။[*၂]

ထို့ပြင် ဦးတင်သည် လူငယ်လူရွယ်များကိုသင်ကြားပေးရန် ပေါတကောဝါဒစာတမ်း တစ်စောင်ရေးသားပြီးနောက် လွန်ခဲ့သောဝါဆိုလဆန်း ၉–ရက် (အေဒီ–၂၀၊ ဇွန်လ၊ ၁၉၁၅–ခုနှစ်) က လယ်တီဆရာတော်ဘုရားကြီး စဥ့်ကူမြို့၌ခေတ္တသီတင်းသုံးနေစဉ် ရှေ့ဘတ်စာရေးကြီး မောင်ကြီးအားသွားရောက်၍ပြသစေခဲ့သည်။ ထိုပေါတကောဝါဒစာတမ်းမှာ စာသားအနည်းငယ် မျှသာပါရှိလေရာ ဆရာတော်ဘုရားကြီးက ဒကာမောင်ကြီးအားဖတ်ပြစေသည်။ ပြီးလျှင် ဆရာတော်ဘုရားကြီးက–

'ဆိုစရာမရှိပါဘူး ကောင်းပါရဲ့၊ သို့ရာတွင် ပါဠိဘာသာလင်္ကာမှ မြန်မာဘာသာ တဆင့်ဖွင့်ဆိုဖော်ပြနေရသည့်အတွက် မြန်မာသက်သက်ရေးခဲ့ပါလျှင် သာ၍ လူငယ် များ နားလည်လွယ်ပါလိမ့်မည်'–ဟူ၍ မိန့်ဆိုတော်မူလိုက်ပါသည်။[*၃]

လယ်တီဆရာတော်ဘုရားကြီးသည် တပည့်ရင်းဦးတင်၏ပင့်လျှောက်ချက်အရ ပုဂံမြို့တွင် ငါးရက်တိုင်တိုင်သီတင်းသုံးတော်မူပြီး ညစဉ်တရားဟောပြောတော်မူပါသည်။ ပြီးနောက် ညောင်ဦး မြို့သို့ကြွတော်မူရန်ပြင်ဆင်သည့်အခါ ဦးတင်က–

'အရှင်ဘုရား၊ ညောင်ဦးမြို့သို့ကြွတော်မူပါလျှင် ညောင်ဦးမြို့၌ ကျမ်းတတ်ဂန်တတ် စကားတတ် အုန်းပင်ကျောင်းဆရာလူထွက်တစ်ဦးရှိနေပါသည်ဘုရား၊ ထိုလူထွက်ပုဂ္ဂိုလ်သည် သာမညမွမွပုဂ္ဂိုလ်ဆိုလျှင် ထွက်ပြေးလောက်အောင် အာပေါင်အာရင်းကောင်းလှပါသည်၊ ဆရာတော်ဘုရားသည် ထိုအုန်းပင်ကျောင်းဆရာလူထွက်ကို သတိထားတော်မူပါဘုရား'ဟူ၍ ရိုသေစွာလျှောက်ထားခဲ့ပါသည်။ ဆရာတော်ဘုရားကြီးကလည်း– 'အေး၊ ကောင်းပြီကွဲ့၊

---

*၁ ပုဂံဝန်ထောက်ဦးတင်(အေဒီ ၁၈၆၁–၁၉၃၃)၊ မြန်မာမင်းလက်ထက် 'နော်ရထာကျော်ထင်ဘွဲ့'၊ အင်္ဂလိပ်လက်ထက် – K.S.M., A.T.M., M.A. စသည့်ဘွဲ့များရရှိပြီး ကဗျာဗန္ဓသာရကျမ်း၊ မြန်မာမင်းအုပ်ချုပ်ပုံစာတမ်း–စသောကျမ်းဂန် စာပေများစွာကို ပြုစုခဲ့သော စာပေပညာရှင်ကြီးတစ်ဦးဖြစ်လေသည်။ မောင်သုတ၏ စာဆိုတော်များအတ္ထုပ္ပတ္တိ။ ၂၀၀၂–ခုနှစ်။ (စာမျက်နှာ ၂၉၈–၂၉၉)။

*၂ ဦးတင်၏ မဟာယာဉ်ဂိုဏ်း မြန်မာနိုင်ငံ ပုဂံသို့ ရှေးဦးစွာရောက်သည်အကြောင်း။ JBRS, Vol.xix, Part.II. 1929. August. Page-40.

*၃ ပုဂံဝန်ထောက်မင်း၏ ပေါတကောဝါဒ (ပထမပိုင်း)။ မြန်မာ့တာရာသတင်းစာပုံနှိပ်တိုက်၊ မန္တလေးမြို့။ ၁၉၁၉–ခုနှစ်။ (စာမျက်နှာ–၈)။

သတိထားရတာပေါ့'ဟု ဦးတင်ကျေနပ်စိမ့်ငှာ တုံ့ပြန်တော်မူပြီးလျှင် ညောင်ဦးမြို့သို့ ကြွတော်မူပါသည်။

ညောင်ဦးမြို့သို့ လယ်တီဆရာကော်ဘုရားကြီးရောက်ရှိတော်မူသောအခါ ပုဂံနယ်ပိုင်ဝန်ထောက်ဦးတင် လျှောက်ထားသည့်အတိုင်းပင် အုန်းပင်ကျောင်းဆရာလူထွက်သည် နောက်ပါတပည့်အပေါင်းနှစ်ကျိပ်ခန့်ခြံရံလျက် ဆရာတော်ဘုရားကြီးထံဆိုက်ရောက်လာကြ၏။ အုန်းပင်ကျောင်းဆရာလူထွက်သည် ဆရာတော်ဘုရားကြီးအား ရှေးဦးစွာဝတ်ဖြည့်ပြီးနောက် ပရိသတ်အလယ်တွင် ရဲတင်းစွာ– 'အရှင်ဘုရား၊ တပည့်တော်မှာ လျှောက်ထားစရာတစ်ချက်ရှိပါသည်၊ ခွင့်ပေးတော်မူပါဘုရား'ဟု ခွင့်ပန်ကြားသည်။ ဆရာတော်ဘုရားကြီးက–

'အေးကွဲ့၊ လျှောက်စရာရှိရင်လျှောက်ပါ၊ ခွင့်ပြုပါတယ်'ဟူ၍ ခွင့်ပြုတော်မူလေ၏။

ထိုအခါ အုန်းပင်ကျောင်းဆရာလူထွက်က– 'တခြားတော့မဟုတ်ပါဘူး၊ အရှင်ဘုရားစီရင်ရေးသားတော်မူသော ပရမတ္ထဒီပနီဋီကာသစ်ပါဠိ၌ပါရှိသောပဏာမဂါထာတို့မှာ (၈)ဂါထာဖြစ်ပြီး၊ *၁ ယင်းဂါထာတို့တွင် ဒုတိယဂါထာ တတိယပါဒ၌ အက္ခရာတစ်လုံးစီပိုခြင်း၊ *၂ ဆဋ္ဌမဂါထာလာ စတုတ္ထပါဒ၌အက္ခရာတစ်လုံးပိုနေခြင်း၊ *၃ အဋ္ဌမဂါထာလာ တတိယပါဒ၌ အက္ခရာတစ်လုံးပိုနေခြင်း *၄–စသည်တို့ကို တွေ့နေရပါသည်ဘုရား၊ ထိုပိုလွန်နေသောအက္ခရာတို့ကို ဖျက်ပစ်ရန်ဖြစ်ပါသည်ဘုရား'ဟု လျှောက်ထားခဲ့လေသည်။

ဆရာတော်ဘုရားကြီးက တုံ့ပြန်မိန့်တော်မူသည်မှာ–

'မင်းက ငါ့ကို သဒ္ဒါမတတ်၊ ဆန်းမတတ်၊ ပိဋကတ်မကျေပွန်လို့ အက္ခရာတွေပိုလွန်တယ်လို့မှတ်သလားကွဲ့။ သဒ္ဒါတတ်လို့၊ ပိဋကတ်တတ်လို့၊ ဆန်းတတ်လို့ အက္ခရာပိုလွန်ထားတာကွဲ့'ဟု အမိန့်တော်ရှိပြီးလျှင် အနား၌ရှိနေသောသံဃာတစ်ပါးအား မိမိပြုစုသည့် နိရုတ္တိဒီပနီကျမ်းစာကြီးကို ယူစေပြီးလျှင် အုန်းပင်ကျောင်းဆရာလူထွက်သို့ ပေးအပ်တော်မူခဲ့ပါသည်။

အုန်းပင်ကျောင်းဆရာလူထွက်သည် နိရုတ္တိဒီပနီကျမ်းစာအုပ်ကိုယူ၍ နောက်ပါတပည့်များနှင့် ဆရာတော်ဘုရားကြီးအား ဝတ်ချရှိခိုးပြီး ပြန်သွားကြ၏။ ၅–ရက်ခန့်ကြာသောအခါ လယ်တီဆရာတော်ဘုရားကြီးသီတင်းသုံးနေတော်မူရာဌာနသို့ ထိုအုန်းပင်ကျောင်းဆရာလူထွက်သည် နောက်ပါတပည့်များနှင့်ရောက်ရှိလာပြန်ပြီးလျှင်–

'အုန်းပင်ကျောင်းဆရာ၊ ငါတို့စီရင်သော နိရုတ္တိဒီပနီကျမ်းစာအုပ်ကို ကျေလည်စွာကြည့်ရှုပြီးပြီလားကွဲ့'ဟုအမေးရှိတော်မူသောအခါ အုန်းပင်ကျောင်းဆရာလူထွက်က–

---

*၁ လယ်တီဆရာတော်ဘုရားကြီး၏ပရမတ္ထဒီပနီ။ ၁၂၆၉–ခုနှစ်။ (စာမျက်နှာ–၁၊ ၂)။

*၂ သဉ္ဇာတံ သော ဟဒယေ မယှံ'–ကိုဆိုလိုသည်။ လယ်တီဆရာတော်ဘုရားကြီး၏ပရမတ္ထဒီပနီ။ ၁၂၆၉–ခုနှစ်။ (စာမျက်နှာ–၁)။

*၃ 'ပရိယာ ဒိန္နာ နပေဟဿရေ'–ကိုဆိုလိုသည်။ ယင်း။ (စာမျက်နှာ–၁)။

*၄ 'ကရိဿံ တံ ပရမတ္ထေသု'–ကိုဆိုလိုသည်။ ယင်း။ (စာမျက်နှာ–၁)။




ရွှေဘိုမြို့ ရွှေဥဒေါင်းတောင်တောရသို့အတက်မုခ်ဦး



ရွှေဥဒေါင်းတောင်ပေါ်ရှိစိန်ရောင်ခြည်စေတီတော်

'တပည့်တော် များပါပြီဘုရား၊ အရှင်ဘုရားကို သဒ္ဒါမတတ်,ဆန်းမတတ်ဟု ထင်ခဲ့မိပါသည်။ ဤနိရုတ္တိဒီပနီဖတ်ရမှ ပိဋကတ်ပါရဂူ, သဒ္ဒပါရဂူ, ဆန္ဒ(ဆန်း)ပါရဂူဖြစ်ကြောင်း သိရပါပြီဘုရား၊ ဤနိရုတ္တိဒီပနီကျမ်းမှာ အလွန်ကောင်းသောကျမ်းဖြစ်ပါသည်၊ တပည့်တော်လွန်ကျူးပြစ်မှားမိသည်ကို သည်းခံတော်မူပါဘုရား' ဟူ၍ ဝန်ချကန်တော့တောင်းပန်ရလေသည်။[*၁]

ပျဉ်းမနားမြို့သို့

သက္ကရာဇ်–၁၂၇၈(အေဒီ–၁၉၁၆)ခုနှစ်တွင် ပျဉ်းမနားမြို့၌ သူဌေးဦးလန်း၊[*၂] ဒေါ်မမလေး[*၃] တို့က ငွေတောင်တောရ၌ လယ်တီစံကျောင်းဆောက်လုပ်ပြီးဖြစ်ပါ၍ ရေစက်ချအလှူခံယူတော်မူပါရန် လယ်တီဆရာတော်ဘုရားကြီးထံလျှောက်ထားလာသည့်အတွက် လယ်တီဆရာတော်ဘုရားကြီးသည် ပျဉ်းမနားမြို့သို့ကြွချီတော်မူခဲ့ပါသည်။ ပျဉ်းမနားမြို့သို့ရောက်လျှင် ဆရာတော်ဘုရားကြီးသည် ပျဉ်းမနားမြို့နှင့် မိုင်နှစ်ဆယ်ခန့်ကွာဝေးသော ရွှေမြို့အနီး ရွှေဥဒေါင်းတောင်ကျောတောရ၌ သီတင်းသုံးနေတော်မူပါသည်။[*၄]

ပျဉ်းမနားမြို့ ငွေတောင်တောရ၌ ကျောင်းရေစက်ချပွဲရက်သို့ရောက်သော် လယ်တီဆရာတော်ဘုရားကြီးသည် တပည့်ရှင်ဥေယျတို့ညီနောင် ရှင်နှစ်ပါးတို့ကို နောက်တော်ပါးမှခေါ်ဆောင်၍ ကြွတော်မူခဲ့ပါသည်။ ထိုသို့ဆရာတော်ဘုရားကြီး ပျဉ်းမနားမြို့သို့ကြွမလာမီ တစ်ညတွင် သူဌေးဦးလန်းနှင့် သူဌေးကတော်ဒေါ်မမလေးတို့နှစ်ဦးစလုံး အိပ်မက်မြင်မက်ကြသည်မှာ– 'မိမိတို့၏သားကြီးသည် ဆရာတော်ဘုရားကြီး၏ခြေတော်ရင်း၌ရှိသည်' ဟူ၍ဖြစ်ပါသည်။ ဦးလန်း၊ ဒေါ်မမလေးမှာ မောင်မြအမည်ရှိသော သားတစ်ဦးရှိပြီးဖြစ်သော်လည်း ထိုအိပ်မက်အတွင်းက သားကိုလည်းလိုချင်လှ၍ ကျောင်းရေစက်ချသည့်နေ့တွင် ထိုသားကို ရှာဖွေကြရာ ဆရာတော်ဘုရားကြီးအနီးရှိ ရှင်ဥေယျကိုတွေ့ကြလေသည်။ ရှင်ဥေယျကိုတွေ့လျှင်ပင် အိပ်မက်အတွင်းက သူတို့သားကြီးဖြစ်သည်ဟု စွဲစွဲမြဲမြဲယုံကြည်သွားကြသည်။ ထိုနေ့ကျောင်းရေစက်ချပွဲအပြီးတွင် ရှင်ဥေယျကို ဆရာတော်ဘုရားကြီးထံတော်မှ သားအဖြစ်မွေးစားခွင့်တောင်းခံသောအခါ ဆရာတော်ဘုရားကြီးက ဦးလန်း၊ ဒေါ်မမလေးတို့အား 'မင်းတို့မောင်နှံ ပရမတ္ထသံခိပ်ကိုးပိုင်း

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၃၆)။

*၂ ဦးလန်းသည် ရမည်းသင်းမြို့ ကျွဲတပ်သူကြီး၏သားဖြစ်သည်။ သက္ကရာဇ်–၁၂၉၆ (အေဒီ ၁၉၃၄–ခုနှစ်)တွင် ကွယ်လွန်ပါသည်။ ဆင်ကျုံးဆရာတော်၏ ရမည်းသင်းခရိုင်သာသနာဝင်သမိုင်း။ ၁၉၉၆–ခုနှစ်။ (စာမျက်နှာ–၄၈၉)။

*၃ ဒေါ်မမလေးသည် လေးမြို့အုပ် သင်းဗိုလ်စုဝန်သေနတ်ရ ဦးမောင်လေး၏သမီးဖြစ်သည်။ သက္ကရာဇ်–၁၂၉၇ (အေဒီ ၁၉၃၅–ခုနှစ်)တွင်ကွယ်လွန်သည်။ ယင်း။ (စာမျက်နှာ–၄၈၉)။

*၄ ထိုတောင်ကျော၌ ဆရာတော်ဘုရားကြီးသီတင်းသုံးနေစဉ် စင်္ကြံကြွနေရာတစ်နေရာတွင် ရုတ်တရက်တောင်ဝှေးထောက်မိ၍ တောင်ဝှေးကိုမြေမှနုတ်မရသဖြင့် ကောင်းကင်သို့မော့၍ကြည့်ရှုတော်မူသောအခါ လကွယ်ညဖြစ်ပါလျက် လထွက်ပြူသကဲ့သို့ အလင်းရောင်ကို ထူးဆန်းစွာတွေ့တော်မူသောကြောင့် ထိုတောင်ဝှေးနုတ်မရသောနေရာတွင် စေတီတည်ရန် မှာကြားတော်မူခဲ့ပါသည်။ ထိုနေရာ၌ နောင်အခါ စိန်ရောင်ခြည်ဓာတ်ပေါင်းစုစေတီကိုတည်ခဲ့ကြသည်။ ဆင်ကျုံးဆရာတော်၏ ရမည်းသင်းခရိုင် သာသနာဝင်သမိုင်း။ ၁၉၉၆–ခုနှစ်။ (စာမျက်နှာ–၁၇၈)။





ရွှေဥဒေါင်းတောင်ပေါ်၌ လယ်တီဆရာတော်ကြီးသီတင်းသုံးတော်မူသောအုတ်တိုက်



ရွှေဥဒေါင်းတောင်ပေါ်ရှိ လယ်တီဆရာတော်ကြီးစင်္ကြံကြွရာစင်္ကြံလမ်း

လုံးကို နှုတ်တက်အာဂုံရမည်ဆိုပါက ဤရှင်ကလေးအား မွေးစားခွင့်ပြုမည်’ဟု မိန့်ဆိုတော်မူလိုက်သည်။

ထိုနေ့ကစပြီး သူဌေးဇနီးမောင်နှံတို့သံခိပ်ကျက်ကြရာ ဦးလန်းတို့တစ်အိမ်လုံး သံခိပ်သံ သောသောညံနေလေသည်။ မကြာမီမှာပင် ဦးလန်း, ဒေါ်မမလေးတို့ဇနီးမောင်နှံ သံခိပ်ရကြ၏။ သို့နှင့် လယ်တီဆရာတော်ဘုရားကြီးသီတင်းသုံးရာ ရွှေဥဒေါင်းတောင်သို့ ပရိသတ် ၅၀-ခန့် ခြံရံလျက်သွားရောက်ပြီး သံခိပ်ပြန်ဆိုကြလေသည်။ ဆရာတော်ဘုရားကြီးက သံခိပ်တစ်ပိုင်း ပြန်ပြီး သရုပ်များမေးရာ ဖြေနိုင်ကြသဖြင့် ဒုတိယပိုင်းပြန်ဆိုစေသည်။ ဒုတိယပိုင်းပြန်ပြီးသော အခါ ‘ကဲ-သားအဖြစ်ပိုင်စေဗျာ၊ ပိုင်စေ’ဟု အမိန့်တော်ရှိသဖြင့် ရှင်ဥေယျအား သားအဖြစ် မွေးစားခဲ့ကြသည်။*၁

**အနုဒီပနီပါဌ်**

လယ်တီဆရာတော်ဘုရားကြီးသည် ပရမတ္ထဒီပနီစာဝါကို ချပို့တော်မူရင်း ဉာဏ်နုံ့သူတို့ အဘိဓမ္မာဉာဏ်သိမြင်ကျယ်ပွားစေရန်ရည်သန်လျက် မိမိ၏ဇရာဒုဗ္ဗလအဖြစ်ကို မငဲ့ကွက်မူဘဲ ထိုဒီပနီကျမ်းအား ထပ်ဆင့်ရှင်းလင်းသော အနုဒီပနီကျမ်းကို နှုတ်တော်မှမိန့်မြွက်ပေးပြီး တပည့်များက လိုက်၍ရေးသားကြရာ၊ သက္ကရာဇ် ၁၂၇၈-ခုနှစ်၊ နယုန်လ(အေဒီ ၁၉၁၆-ခုနှစ်၊ ဇွန်လ)တွင် ထိုကျမ်း(အနုဒီပနီပါဌ်)သည် ရေးသားအောင်မြင်၍ပြီးစီးခဲ့ပြီဖြစ်ပါသည်။ ထိုကျမ်းကို ပါဠိဆရာ ဆရာခန့်အား တဖန်ထပ်မံ၍ကြပ်မပြင်ဆင်စေပြီး၊ ဆရာတော်ဘုရားကြီး၏တပည့် ပဌမကျော် အရှင်ဉာဏအား နိဒါန်းရေးသားခြင်း၊ ထပ်ဆင့်ကြည့်ရှုပြင်ဆင်စေခြင်းများပြုစေတော်မူခဲ့ပါသည်။*၂

**ကေပဉ္စာသမဝါဆိုတော်မူခြင်း**

လယ်တီဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၇၈-ခုနှစ်၊ ဝါတွင်းကာလ(အေဒီ ၁၉၁၆-ခုနှစ်၊ ဇူလိုင်လ) ပျဉ်းမနားမြို့ စမ်းကျတောကျောင်းအနီး အင်ကြင်းမြိုင်စကြံကျောင်းတွင် (၅၁)ကြိမ်မြောက် ကေပဉ္စာသမဝါကိုကပ်တော်မူခဲ့ပါသည်။*၃

**ဣဏပရိဘောဂပုစ္ဆာ**

သက္ကရာဇ် ၁၂၇၈-ခုနှစ်၊ ဝါတွင်း (အေဒီ ၁၉၁၆-ခုနှစ်၊ ဇူလိုင်လ) လယ်တီဆရာတော်ဘုရားကြီး ပျဉ်းမနားမြို့ အင်ကြင်းမြိုင်တောရဍ္ဍဝါကပ်တော်မူနေစဉ် တော်သလင်းလ (အေဒီ

---

*၁ ရှင်ဥေယျ အသက်(၁၉)နှစ်၊ (၃)လကျော်သော် ပျဉ်းမနားမြို့မှာပင် ဦးလန်း၊ ဒေါ်မမလေးတို့က ရဟန်းခံခဲ့ကြသည်။ ထို့ပြင် အမွေအဖြစ်ငွေငါးသိန်းပေးရာ ဦးဥေယျကလက်မခံဘဲ ‘ဒကာကြီးတို့ ဒကာမကြီးတို့ လှူလိုရာလှူကြပါ’ဟုဆိုသဖြင့် လယ်တီစံကျောင်းအတွက် တစ်သိန်း၊ ဆင်ဖြူတောင်ကိုးခမ်းအတွက် တစ်သိန်း၊ ဆင်ဖြူတောင်ဘုရားနှင့် ပြာသာဒ် အတွက် သုံးသိန်း၊ ကိုးခမ်းကြီးဘုရားအတွက် တစ်သိန်းနှစ်သောင်း-စသည်ဖြင့်လှူခဲ့ကြသည်။ လယ်တီစံကျောင်း ဆရာတော်၏မဟာထေရုပ္ပတ္တိကထာအကျဉ်းချုပ်။ (စာမျက်နှာ-၃)။

*၂ လယ်တီဆရာတော်ကြီး၏ အနုဒီပနီပါဌ်။ဟံသာဝတီပိဋကတ်စာပုံနှိပ်တိုက်၊ရန်ကုန်မြို့။၁၉၂၀-ပြည့်နှစ်။(စာမျက်နှာ-၃၊၃၂၄)။

*၃ လယ်တီဆရာတော်ကြီး၏ ဣဏပရိဘောဂဝိနိစ္ဆယကျမ်း။ ကဝိမျက်မှန်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၃-ခုနှစ်။ (စာမျက်နှာ-၅၀)။



ပျဉ်းမနားမြို့
လယ်တီစံကျောင်းကို
မူလပုံစံအတိုင်းတွေ့ရပုံ





ပျဉ်းမနားမြို့၊ ငွေတောင်တောင်ထိပ်ရှိ လယ်တီစံကျောင်း(ယခုပြုပြင်ထားပုံ)နှင့်
လယ်တီစံကျောင်း၏မူလမုခ်ဦးလှေခါး







ပျဉ်းမနားမြို့၊ လယ်တီစံကျောင်းဒါယကာ သူဌေးဦးလန်း၊ဇနီးဒေါ်မမလေးနှင့် သားဦးမြ

၁၉၁၆–ခုနှစ်၊ ဩဂုတ်လ) ၌ စစ်ကိုင်းတောင်ရိုး စာမရီတိုက်နေ အရှင်စန္ဒာဝရက– 'ရဟန်းတို့ သုံးဆောင်အပ်သောပစ္စည်းများကို ပစ္စဝေက္ခဏာဆင်ခြင်ခြင်းနှင့်စပ်လျဉ်းသော ပစ္စယသန္နိဿိတ သီလဆိုင်ရာအမေးပုစ္ဆာတစ်ရပ်ကို အောက်ပါအတိုင်းစာရေးလျှောက်ထားမေးမြန်းခဲ့ပါသည်။

ဖေယျာပူရ စာမရီချောင် အရှင်စန္ဒာဝရ၏မေးလျှောက်ချက်မှာ–

၁။ မြတ်စွာဘုရားသည် အကြည်အဖြူခွင့်ပြုတော်မူအပ်သော ပိဏ္ဍိယာလောပဆွမ်းပစ္စည်း၊ ပံသုကူလသင်္ကန်းပစ္စည်း၊ ရုက္ခမူလကျောင်းပစ္စည်း၊ ပုတိမုတ္တဆေးပစ္စည်း– ဤလေးပါးတစ်ရပ်၊

၂။ မြတ်စွာဘုရားသည် ဝေနေယျဇ္ဈာသယကိုငဲ့သဖြင့် ခွင့်ပြုတော်မူအပ်သော အတိရေကလာဘမျိုးဖြစ်သော ပစ္စည်းလေးပါးတစ်ရပ်၊

၃။ ဤသို့ပစ္စည်းလေးပါးနှစ်ရပ်ရှိနေရာ ရဟန်းတော်တို့မှာ က္လဏပရိဘောဂမဖြစ်စေရန် ပစ္စဝေက္ခဏာဆင်ခြင်ရာ၌ ပထမပစ္စည်းရပ်မှာ မြတ်စွာဘုရား၏အလိုတော်ကျ ခွင့်ပြုတော်မူသောပစ္စည်းများဖြစ်ပေ၍ ပစ္စဝေက္ခဏာဆင်ခြင်ဖွယ်မရှိ၊ မဆင်ခြင်သော်လည်း က္လဏပရိဘောဂမဖြစ်။ အတိရေကလာဘပစ္စည်းမျိုး၌သာ မြတ်စွာဘုရား၏ အလိုတော်ကျမဟုတ်၊ ဝေနေယျဇ္ဈာသယကိုငဲ့သဖြင့် ခွင့်ပြုတော်မူအပ်သောပစ္စည်းမျိုးဖြစ်ချေ၍ ပစ္စဝေက္ခဏာဆင်ခြင်ရမည်၊ မဆင်ခြင်လျှင် က္လဏပရိဘောဂဖြစ်မည်– ဟူ၍တစ်ဝါဒ၊

၄။ ရှေ့ပစ္စည်းရပ်၊ နောက်ပစ္စည်းရပ် နှစ်ရပ်လုံး၌ပင် ပစ္စဝေက္ခဏာ ဆင်ခြင်ရမည်၊ မဆင်ခြင်လျှင် က္လဏပရိဘောဂဖြစ်မည်ဟူ၍တစ်ဝါဒ– ဤဝါဒနှစ်ရပ်တွင် ဘယ်ဝါဒ သင့်မြတ်သည်ကို ဆုံးဖြတ်ပေးတော်မူပါမည့်အကြောင်းပင် ဖြစ်လေသည်။

ဖေယျာပူရ စာမရီချောင် ရှင်စန္ဒာဝရ၏မေးလျှောက်ထားသော က္လဏပရိဘောဂပုစ္ဆာကို ဖြေဆိုရာ၌ လယ်တီဆရာတော်ဘုရားကြီးက သာသနာတော်တွင် ဤအချက်တို့သည် အလေးအနက်အထူးသိစေလိုသောရည်သန်တော်မူချက်ကြောင့် ထိုအဖြေလွှာအဆုံးပိုင်း၌ ဩဝါဒအဖြစ် မိန့်ကြားတော်မူခဲ့လေသည်။*[၁] အကြောင်းမှာ ပစ္စည်းလေးပါးမည်သည် ရဟန်းသံဃာအားလုံးနှင့် နေ့စဉ်ဆက်စပ်နေရသည်။ ပစ္စည်းလေးပါးကိုအကြောင်းပြု၍ အပြစ်ရလျှင်လည်း နေ့စဉ်နှင့်အမျှ အပြစ်ရနေကြပေလိမ့်မည်။ နေ့စဉ်နှင့်အမျှ ဤပစ္စည်းလေးရပ်အပေါ်၌ဆင်ခြင်နေကြပါက အပြစ်ကင်းကြမည်သာဖြစ်သည်။ သို့ဖြစ်၍ လယ်တီဆရာတော်ဘုရားကြီးက အရှင်စန္ဒာဝရကိုအကြောင်းပြု၍ ထိုက္လဏပရိဘောဂအဖြေလွှာတွင် ရသတဏှာ၏ဆိုးဝါးပုံကိုလည်း ကြဲတုန်းဆုံတုန်း အကျယ်တဝင့် ဆုံးမတော်မူခဲ့ပါသည်။

---

*[၁] ဤအဖြေလွှာကို ဆရာတော်ဘုရားကြီးကိုယ်တော်တိုင် ရေးသားဖြေဆိုတော်မူသည်မဟုတ်ဘဲ တပည့်ဦးပဒုမကို နှုတ်တော်က မိန့်မြွက်၍ အရေးနိုင်းခြင်းဖြစ်ပါသည်။



စင်ကာပူနိုင်ငံဗုဒ္ဓဘာသာဘုရားကျောင်းသို့
လယ်တီဆရာတော်ဦးဆောင်၍လှူဒါန်းခဲ့သောဆင်းတုတော်

အဂ္ဂမဟာပဏ္ဍိတ။
ဘွဲ့တံဆိပ်တော်ရ
မုံရွာမြို့
လယ်တီဆရာတော်ဘုရားကြီး
ရေးသားစီရင်တော်မူအပ်သော
ပရမတ္ထဒီပနီ-သင်္ဂြိုဟ်မဟာဋီကာသစ်ကျမ်း၏အဖွင့်
အနုဒီပနီပါဌ်။

ပါဠိဆရာ-ဆရာစနှင့် ကြပ်မပြင်ဆင်သည်။

ဆရာတော်ဘုရားကြီး၏အမိန့်အရ၊
မန္တလေးမြို့၊
ဈေးကြို့တော်၊ပြင်ဘက်တန်း။ဆိုင်နံပါတ်-၃-၄-၅။
ရတနာပုံမြန်မာစာအုပ်တိုက်ဆိုင်ရှင်
မင်းကတော်ကြီးမမညွန့်က
ပထမရိုက်နှိပ်ခြင်း စာအုပ်ရေ( ၃၀၀၀ )။

မန္တလေးမြို့၊
ဟံသာဝတီပိဋကတ်စာပုံနှိပ်တိုက်။
1920

ပရိယတ်ပဋိပတ်။နှစ်ရပ်ကုံလုံ။ဖွယ်ရုံရန်သောက်။
ပါမောက်တချု။ဖြစ်တော်မူသော
မုံရွာမြို့
လယ်တီဆရာတော်ဘုရားကြီး
သည်။
ပဋ္ဌာနသမ္ဗန္ဓသိစာ၊သိလဆိုင်ရာ။
ကောင်းစွာညွှန်ပြအင်သော
ဗုဒ္ဓကြောပရိဘောဂဝိနိစ္ဆယကျမ်း။

သက္ကရာဇ်-၁၂၇၃-ခု၊သီတင်းကျွတ်လအတွင်း
ပုံနှိပ်၍ပြီးသည်၊

ရန်ကုန်မြို့။
၂၅-လမ်းစာဆိုတန်း၊တိုက်နံပါတ်-၄၉၊
ကဗိမျက်မှန်စာပုံနှိပ်တိုက်။
အဘိုး-၅-ပဲ၊

ဤဝိနိစ္ဆယအဖြေလွှာကို လယ်တီဆရာတော်ဘုရားကြီးသည် ပျဉ်းမနားမြို့ စမ်းကျတော ကျောင်းအနီး အင်ကြင်းမြိုင်စကြံကျောင်း၌ မြန်မာသက္ကရာဇ် ၁၂၇၈–ခုနှစ်၊ သီတင်းဝါကပ်ဆို နေထိုင်စဉ် နှုတ်တော်မှမိန့်မြွက်၍ တပည့်အများလိုက်ရေးသားကြစေရာ ထိုနှစ် သီတင်းကျွတ် လဆန်း ၂–ရက်နေ့ (အေဒီ–၂၈၊ စက်တင်ဘာလ၊ ၁၉၁၆)တွင် အောင်မြင်ပြီးစီးလေသတည်း။

**စင်ကာပူသို့ဆင်းတုတော်ပေးပို့လှူဒါန်းခြင်း**

စင်ကာပူနိုင်ငံသို့ သက္ကရာဇ်–၁၂၄၀ (အေဒီ–၁၈၇၈)ခုနှစ်ခန့်မတိုင်မီကပင် ရောက်ရှိနေပြီး ဖြစ်သော မြန်မာလူမျိုးများသည် ထိုနိုင်ငံဒေသအတွင်း မြန်မာဗုဒ္ဓဘာသာဘုရားကျောင်း တစ်ဆောင်ဖြစ်မြောက်ရေးအတွက် ကြိုးပမ်းခဲ့ကြဖူးပါသည်။ ထိုစဉ်က ကျောင်းဖြစ်မြောက်ရေး အတွက် တရုတ်မြန်မာဗုဒ္ဓဘာသာအမျိုးသားကြီး မစ္စတာ တန်ကောက်ဆင်း (Mr. Tan Kong Seng) က မြေတစ်ကွက်ဝယ်ယူ၍လှူဒါန်းခဲ့ဖူးပါသည်။ ထိုပုဂ္ဂိုလ်ကြီးကွယ်လွန်ပြီးနောက် မဒမ် ကမ်ကနိုး (Madame Kan Neoh)၊ မစ္စတာတန်ဆွေချင်း (Mr. Tang Sooay Chin)၊ ဦးသာနှင်း စသောပုဂ္ဂိုလ်များက ဆက်လက်၍ စင်ကာပူမြန်မာဗုဒ္ဓဘာသာကျောင်းတော်ဖြစ်မြောက်ရေး အတွက်လုပ်ဆောင်ခဲ့ကြရာ၊ မြိတ်မြို့နေ ဆေးဆရာကြီးဦးသာထူး၊ ဒေါ်အုန်းနှစ်တို့၏သား အသက်(၄၂)နှစ်အရွယ် မြန်မာဗိန္ဒောဆရာကြီးဦးကျော်ဂေါင်(အေဒီ ၁၈၆၆–၁၉၃၅)ကို သက္ကရာဇ်– ၁၂၆၉ (အေဒီ–၁၉၀၇)ခုနှစ်တွင် စင်ကာပူမြို့၌ ဗုဒ္ဓဘာသာမြန်မာကျောင်းဖြစ်မြောက်ရေးအတွက် တာဝန်လွှဲအပ်လိုက်ကြသည်။ မကြာမီမှာပင် ကင်းတားလမ်း၌ မြန်မာဗုဒ္ဓဘာသာကျောင်းတော် ဖြစ်ပေါ်လာခဲ့ပါသည်။*၁ ထိုကျောင်းတော်၌ပူဇော်ထားရှိရန် ဆင်းတုတော်တစ်ဆူကို သက္ကရာဇ်– ၁၂၇၇(အေဒီ–၁၉၁၅)ခုနှစ်တွင် ထိုင်းဘုရင်မင်းမြတ်က ဦးစွာပေးပို့လှူဒါန်းခဲ့ပါသည်။ ထို့နောက် သက္ကရာဇ်–၁၂၇၈(အေဒီ–၁၉၁၇)ခုနှစ်တွင် လယ်တီဆရာတော်ဘုရားကြီးအမှူးရှိသော ရွှေကျင် မြို့မှ ဝိုင်အမ်ဘီအေအသင်းသားများ၊ ဘုရားဒါယကာဦးဘိုးသင်း၊ မမိနှင့် သားသမီးတစ်စုတို့ လှူဒါန်းသော ကျောက်ဆင်းတုတော်တစ်ဆူကို စင်ကာပူသို့ပို့ဆောင်ပူဇော်ထားရှိနိုင်ခဲ့ပါသည်။*၂ လယ်တီဆရာတော်ဘုရားကြီးက မိမိအမှူးပြုလှူဒါန်းထားသော ထိုစကျင်ကျောက်ဆင်းတုတော် မြတ်အား စင်ကာပူမြန်မာဘုန်းတော်ကြီးကျောင်းမှာသာ အစဉ်ထာဝရပူဇော်ထားရှိရန် အာသီသ ဆန္ဒပြု၍ ကမ္မည်းတင်ထားရှိတော်မူခဲ့ပါသည်။*၃

---

*၁ ထိုကျောင်းကို အေဒီ ၁၉၉၁–ခုနှစ် ဒီဇင်ဘာလ(၂၉)ရက်နေ့တွင် သာသနာ့ရံသီ စင်ကာပူမြန်မာဘုန်းတော်ကြီးကျောင်း အဖြစ် စင်ကာပူနိုင်ငံ၊ မော်လမြိုင်ရပ်ကွက်၊ တိုင်ဂျင် (Tai Gin) လမ်း၊ အမှတ်–၁၄ သို့ ရွှေ့ပြောင်းခဲ့ပြီးဖြစ်သည်။

*၂ အရှင်သုမနာစာရ(ထိုင်းနိုင်ငံ)၏ စင်ကာပူမှ ဗုဒ္ဓရူပသာသနာပြုကျောက်ဆင်းတု(ဆောင်းပါး)။ မဓ္ဓျိမဟာစာစောင်။ အတွဲ–၂၃၊ အမှတ်–၁၂။ ၁၉၈၅–ခုနှစ်၊ ဖေဖော်ဝါရီလ။ (စာမျက်နှာ ၂၅–၂၇)။ ချစ်စံဝင်း၏ ကြိုးစားမှုနောက်ကွယ်မှ စင်ကာပူမြန်မာဘုန်းတော်ကြီးကျောင်း။ ပန်းမျိုးတစ်ရာစာပေ၊ ရန်ကုန်မြို့။ ၁၉၉၆–ခုနှစ်။ (စာမျက်နှာ–၅၀၊ ၅၁)။

*၃ လော့စ်အိန်ဂျလစ် ပီနန်ဆရာတော်ဘုရားကြီး အဂ္ဂမဟာပဏ္ဍိတဘဒ္ဒန္တ ပညာဝံသမဟာထေရ် (၂၆၊ ၈၊ ၂၀၀၇)နေ့ မိန့်ကြား တော်မူချက်ဖြစ်ပါသည်။

**မဟာသရဏဂုံကြီး**

လယ်တီဆရာတော်ဘုရားကြီး ပျဉ်းမနား၌သီတင်းသုံးနေတော်မူစဉ် သက္ကရာဇ် ၁၂၇၉-ခုနှစ်၊ ကဆုန်လ (အေဒီ ၁၉၁၇-ခုနှစ်၊ ဧပြီလ) တွင် ပျော်ဘွယ်မြို့ သိမ်ကျောင်းတိုက်*၁ နေ တပည့်ဦးသူရိယက ရဟန်းရှင်လူအပေါင်းတို့ ကပ်ကြီးသုံးပါးမှကင်းလွတ်စေခြင်း၊ မဂ်ဖိုလ်နိဗ္ဗာန်ကို လျင်မြန်စွာရောက်စေခြင်းစသောအကျိုးငှာ နေ့စဉ်မပြတ်ရွတ်ဖတ်သရဇ္ဈာယ်နိုင်ကြစေရန် ရေးသား ချီးမြှင့်ပေးတော်မူပါဟု တောင်းပန်လျှောက်ထားချက်အရ 'မဟာသရဏဂုံကြီး' ကို ဆရာတော် ဘုရားကြီး ရေးသားချီးမြှင့်ပေးတော်မူခဲ့ပါသည်။

မဟာသရဏဂုံကြီးဆိုသည်မှာ- 'အဇ္ဇတဂ္ဂေ ပါဏုပေတံ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊ အဇ္ဇတဂ္ဂေ ပါဏုပေတံ ဓမ္မံ သရဏံ ဂစ္ဆာမိ၊ အဇ္ဇတဂ္ဂေ ပါဏုပေတံ သံဃံ သရဏံ ဂစ္ဆာမိ' အစ- 'သဗ္ဗေဟိ ဝဏ္ဏဒုက္ခေဟိ မောက္ခဝိမောက္ခပရိယန္တံ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊ သဗ္ဗေဟိ ဝဏ္ဏဒုက္ခေဟိ မောက္ခဝိမောက္ခပရိယန္တံ ဓမ္မံ သရဏံ ဂစ္ဆာမိ၊ သဗ္ဗေဟိ ဝဏ္ဏဒုက္ခေဟိ မောက္ခဝိမောက္ခပရိယန္တံ သံဃံ သရဏံ ဂစ္ဆာမိ'-အဆုံးရှိသော ဘုရား,တရား,သံဃာ အထူးဆည်းကပ်ကြောင်း သရဏဂုံ ကြီးပင်ဖြစ်သည်။ အပိုဒ်အားဖြင့် (၁၇၃)ပိုဒ်ပါရှိသည်။ ထို(၁၇၃)ပိုဒ်ကို ဗုဒ္ဓ,ဓမ္မ,သံဃ-သုံးကြိမ် ရွတ်ဆိုခြင်းဖြင့် မဟာသရဏဂုံတစ်ကြိမ် ပူဇော်ပြီးလျှင် သရဏဂုံ(၅၁၉)ကြိမ် ဆောက်တည် ပြီးဖြစ်တော့သည်။*၂

ဤမဟာသရဏဂုံကြီးကို အစမှအဆုံး တစ်ကြိမ်ရွတ်ဆိုဆောက်တည်ပြီးတိုင်း ဆုတောင်း မေတ္တာပို့ရန်အတွက် 'ဆုတောင်းမေတ္တာပို့ကြီး' ကိုလည်း ဆရာတော်ဘုရားကြီးက အောက်ပါ အတိုင်း ချီးမြှင့်ပေးတော်မူခဲ့ပါသည်။ ယင်းဆုတောင်းမေတ္တာပို့ကြီးမှာ-

> ဤသရဏဂုံကြီးကို ကြည်ဖြူလေးမြတ် ဆောက်တည်အပ်သော ပုညအစု, ကောင်းမှုအသီး, ဘာဝနာကုသိုလ်ကြီးကိုလည်းကောင်း၊ ဤမှတပါး ယနေ့တွင် ဖြူစင်သောစိတ်နှလုံးဖြင့် ကျင့်သုံးသမှု, ပြုပြုသမျှ, အစစသော, ကုသိုလ်အကျိုး မျိုးတို့ကိုလည်းကောင်း၊ အကျွန်ုပ်ကို ကြည်ညိုသမှု, ကြည်ရှုစောင်မကြပေကုန် သော နတ်ကောင်းနတ်မြတ်တို့အား အကျွန်ုပ် အမျှပေးဝေကြပါ၏၊ အကျွန်ုပ် ကုသိုလ်၏အကျိုးကို အကျွန်ုပ်နှင့်အတူ အမျှရကြပါစေကုန်သတည်း။
>
> တန်ခိုးအာဏာ, ဘုန်းပညာနှင့်, တေဇာအထွေထွေ, ကျက်သရေလည်း, လနေပမာ, ထိန်ထိန်ဖြာသည်, ရောင်ဝါနေ့တိုင်း ထိုးစေသောဝ်။

*၁ ပျော်ဘွယ်မြို့မြောက်ဘက် ရွှေပြည်အောင်ရပ်ကွက်တွင်ရှိသည်။ ဘုန်းကြီးဦးသူရိယသည် နောင်အခါ ပျော်ဘွယ်မြို့ ရွှေပြည်သာဘုရားအရှေ့ဘက်ရှိ သိမ်ခွဲကျောင်း(ယခု ပရိယတ္တိမာမကကျောင်း)၌ သွားရောက်နေထိုင်သီတင်းသုံးခဲ့သည်။ ပျော်ဘွယ်မြို့ သိမ်ကျောင်းဆရာတော်ဦးပဒုမ၏ (၃၀၊ ၁၀၊ ၂၀၀၄)နေ့ မိန့်ကြားချက်ဖြစ်သည်။

*၂ လယ်တီဆရာတော်ကြီး၏ မဟာသရဏဂုံကြီး။ ကဝိမျက်မှန်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၉၅-ခုနှစ်။ (စာမျက်နှာ ၁-၁၃)။

နတ်နန်းနတ်အိမ်, နတ်စည်းစိမ်နှင့်, နတ်ရှိန်နတ်ဝါ, နတ်ချမ်းသာလည်း, များစွာဖြိုးဖြိုး, နေ့စဉ်တိုးသည်, ကောင်းကျိုးခပ်သိမ်းကြွယ်စေသောဝ်။

ရတနာသုံးပါး, အမြတ်ထားလျက်, ဆယ်ပါးဒုစရိုက်, မလိုက်မပါ, သတ္တဝါကို, ချမ်းသာစေကြောင်း, ကောင်းသောအကြံ, မှန်သောအယူ, ဖြူသောနှလုံး, သုံးသားသီတင်း, ရှင်ရင်းမြတ်စွာ, သာသနာသည်, ရောင်ဝါထိန်ထိန် ထွန်းစေသောဝ်-ဟူ၍ဖြစ်ပါသည်။[*၁]

## ဒွိပညာသမဝါကပ်တော်မူခြင်း

လယ်တီဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၇၉-ခုနှစ်၊ ဝါတွင်းကာလ (အေဒီ ၁၉၁၇-ခုနှစ်၊ ဇွန်/ဇူလိုင်လ)တွင် မိမိဖန်ဆင်းတည်ထောင်အပ်သော လယ်တီတောရကျောင်းတိုက်ကြီးအတွင်း၌ ဝါကပ်ဆိုရန် မုံရွာမြို့သို့ အထူးမီးရထားကြီးဖြင့်ရောက်ရှိတော်မူခဲ့ပါသည်။ ကျောင်းရှိ သံဃာကုန် သာမဏေကုန် တပည့်ကုန်တို့သည် အောင်လံကိုယ်စီဖြင့် သံလမ်းအနီးမှကြိုဆိုကြသည်။ ဆရာတော်ဘုရားအား လှည်းယာဉ်ဖြင့်တင်၍ ကျောင်းတွင်းသို့ဆွဲယူလာကြသည်။ ကမ္မာရီအသင်းဝင်များက လမ်းတစ်လျှောက်ခြံရံလျက် ပရမတ္ထသံခိပ်များကိုသံပြိုင်ရွတ်၍ ပူဇော်ကြပါသည်။ ဆရာတော်ဘုရားကြီးသည် လယ်တီကျောင်းတိုက်သို့ရောက်ပြီးနောက် (၅၂)ကြိမ်မြောက် ဒွိပညာသမဝါကိုကပ်ဆိုတော်မူခဲ့ပါသည်။ ဤအကြိမ်ဝါကပ်တော်မူခြင်းသည် လယ်တီတောရကျောင်းတိုက်ကြီးအတွင်း၌ ဆရာတော်ဘုရားကြီး နောက်ဆုံးအကြိမ်ဝါကပ်တော်မူခြင်းပင်ဖြစ်တော့သည်။ ဆရာတော်ဘုရားကြီး ဤသို့ဝါကပ်နေတော်မူစဉ်အတွင်း ကြို့ပင်ကောက်မြို့ ကျွန်းကုန်းကျောင်းဘုန်းတော်ကြီးဦးဒီပသည် ဆရာတော်ဘုရားကြီးထံတော်ပါး၌ ဝါကပ်၍ တရားဓမ္မနိဿယကိုနည်းခံနာယူခဲ့ပါသည်။[*၂]

## ကျောင်းဒကာကြီးဦးကြွယ်၏ ထူးခြားသောအလှူ

လယ်တီကျောင်းမြေနှင့် ဘုရားတိုက်ဒါယကာကြီးဦးကြွယ်သည် မူလက ဗုဒ္ဓဘာသာဝင်မဟုတ်ခဲ့ပေ။ လယ်တီဆရာတော်ဘုရားကြီးကိုကြည်ညိုဆည်းကပ်ရာမှ ဗုဒ္ဓဘာသာသို့သက်ဝင်ခဲ့သူ မုံရွာမြို့မျက်နှာဖုံးသူဌေးကြီးတစ်ဦးဖြစ်လေသည်။ ဘုရား,ကျောင်းဒါယကာသူဌေးကြီးဦးကြွယ်သည် သက္ကရာဇ် ၁၂၇၉ (အေဒီ-၁၉၁၇)ခုနှစ် လယ်တီဆရာတော်ဘုရားကြီး မုံရွာမြို့၌ ဝါကပ်တော်မူသည့်အခါ ဆရာတော်ဘုရားကြီးအား ထူးထူးခြားခြားလှူဖွယ်တစ်ခုဖြင့် လာရောက်လှူဒါန်းခဲ့သည်။ ပြီးလျှင် အဆောက်အအုံတစ်ခုကိုလည်း ကျောင်းတိုက်အတွင်းဆောက်လုပ်ခွင့်တောင်းခံခဲ့ပါသည်။ ကျောင်းဒါယကာကြီးဦးကြွယ်၏အလှူဝတ္ထုကို ဆရာတော်ဘုရားကြီးက

---

*၁ လယ်တီဆရာတော်ကြီး၏ မဟာသရဏဂုံကြီး။ ကဝိမျက်မှန်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၉၅-ခုနှစ်။ (စာမျက်နှာ-၁၄)။

*၂ လယ်တီဆရာတော်ကြီး၏ သင်္ခတ, အသင်္ခတအဖြေကျမ်း။ ဇမ္ဗူမိတ်ဆွေပိဋကတ်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၂၀-ပြည့်နှစ်။ (စာမျက်နှာ-၁)။



မုံရွာမြို့၊လယ်တီတိုက်အတွင်း၌ရှိခဲ့သော ကျောင်းဒါယကာကြီးဦးကြယ်၏ကောင်းမှု အုတ်ပြာသာဒ်



မုံရွာမြို့ရှိ ပဒပ်ကုန်းသုသာန်ရှိ
လယ်တီတောရကျောင်းဒါယကာကြီးဦးကြယ်၏ဂူပြာသာဒ်

လှူဒါန်းခံယူသည့်ပြင် ကျောင်းဒကာကြီး၏ဆန္ဒအတိုင်း ဆောက်လုပ်ဆောင်ရွက်ရန်ကိုလည်း ခွင့်ပြုတော်မူခဲ့ပါသည်။

ကျောင်းဒါယကာကြီးဦးကြယ်လှူဒါန်းသောဝတ္ထုပစ္စည်းဆိုသည်မှာ အခြားမဟုတ်၊ အသုဘဆိုင်ရာ မှန်စီရွှေချခေါင်းကြီးတစ်လုံးဖြစ်သည်။*၁ ထိုမှန်စီရွှေချခေါင်းမှာ နဝရတ်ကိုးပါးချယ်စီမံပြီး ရုပ်လုံးပေါ်ဇာတ်စုံခင်း ထုထွင်းထားသည်။ ကျောင်းဒကာကြီးဦးကြယ်က ဆရာတော်ဘုရားကြီး ဘဝနတ်ထံပျံလွန်တော်မူမည့်ကာလနှင့် မိမိ၏သက်တမ်းစသည်ကို အတိအကျမသိနိုင်၊*၂ မိမိက အလျင်ကွယ်လွန်ခဲ့လျှင် လှူဒါန်းခွင့်ရမည်မဟုတ်သောကြောင့် ယခုအချိန်ကပင်ကြိုတင်၍ ဤဒါနကို ပြုခဲ့ခြင်းဖြစ်ကြောင်းလျှောက်ထားခဲ့သည်။ စင်စစ် ကျောင်းဒါယကာကြီးသည် တရုတ်လူမျိုးပီပီ ရိုးရာရှိသည့်အတိုင်း မိမိကွယ်လွန်လျှင်အသုံးပြုရန် မိမိအတွက်နှင့် ဆရာတော်ဘုရားကြီးအတွက် ခေါင်းနှစ်လုံးပြုလုပ်စေခဲ့ပြီး လာရောက်လှူဒါန်းခြင်းဖြစ်သည်။ ထို့ပြင် ကျောင်းဒါယကာကြီးဦးကြယ် ဆောက်လုပ်လိုသောအဆောက်အအုံမှာ ဆရာတော်ဘုရားကြီးပျံလွန်တော်မူပါက ရုပ်ကလာပ်တော်ထားရှိရန် ပြာသာဒ်အဆောင်ပင်ဖြစ်သည်။ ဆရာတော်ဘုရားကြီး၏ခွင့်ပြုချက်အရလျှင် ရွှေအပြည့်မွမ်းမံထားသော မြေနင်းအတောင်–၂၀၊ ဘုံခုနစ်ဆင့်၊ အမြင့်အတောင်–၄၀ ရှိ အဖိုးတစ်သိန်းတန်အုတ်ပြာသာဒ်ကြီး အလျားကိုးခန်း၊ အနံလေးခန်းရှိကိုလည်း တည်ဆောက်ခဲ့ပါသည်။*၃

## ကာလကတ္တားပုစ္ဆာ

လယ်တီဆရာတော်ဘုရားကြီး မုံရွာမြို့ လယ်တီတောရဥ္စဝါကပ်နေတော်မူစဉ်အတွင်း ရှေးဦးရောက်ရှိသောပုစ္ဆာတစ်ရပ်မှာ အိန္ဒိယနိုင်ငံ၊ ကာလကတ္တားမြို့သိပ္ပံကျောင်းကြီးတွင် ပညာသင်ယူနေသော မောင်ချစ်ဘေဆိုသူ၏ အသားစားမှုဆိုင်ရာပုစ္ဆာပင်ဖြစ်သည်။

'တပည့်တော်ဒကာငယ် မောင်ချစ်ဘေ ခြေတော်ဦးခိုက်လျှောက်လိုက်ပါသည် ကျေးဇူးတော်ရှင်လယ်တီဆရာတော်ဘုရားကြီးဘုရား–

ကာလကတ္တားမြို့ မြန်မာကျောင်းသားအသင်း၌ ဗုဒ္ဓဘာသာဝင်တို့နှင့် အသားစားခြင်းအကြောင်းကို ဟောပြောငြင်းခုံကြရာ အချို့က မြတ်စွာဘုရားသည် အသား

---

*၁ ဆရာတော်ဘုရားကြီးသည် ပျဉ်းမနားမြို့၌ပျံလွန်တော်မူခဲ့သဖြင့် ဦးကြယ်လှူဒါန်းထားခဲ့သော ထိုမှန်စီရွှေချခေါင်းကြီးကို အသုံးမပြုခဲ့ရဘဲ၊ ပထမကျောင်းပန်းဆရာတော်ကြီးပျံလွန်မှ ကျောင်းပန်းတိုက်ကအသုံးပြုရန် လာရောက်ယူဆောင်သွားကြကြောင်း ပြောစမှတ်ရှိပါသည်။

*၂ ကျောင်းဒါယကာကြီးဦးကြယ်မှာ သူထင်သည့်အတိုင်းပင် ဆရာတော်ဘုရားကြီးဘဝနတ်ထံမစံလွန်မီ သက္ကရာဇ် ၁၂၈၁–ခုနှစ်၊ တပို့တွဲလဆန်း ၁၃–ရက် (အေဒီ–၁၊ဖေဖော်ဝါရီလ၊၁၉၂၀–ပြည့်နှစ်)တွင်ကွယ်လွန်ခဲ့သည်။ ဦးကြယ်၏ ရုပ်ကလာပ်ကို ထိုလဆုတ် ၇–ရက်နေ့တွင် မုံရွာမြို့ ပဒပ်ကုန်းသုသာန်တောင်ဘက်တည့်တည့်၌ အုတ်ဂူသွင်း၍သင်္ဂြိုဟ်ခဲ့သည်။ ယခု မုံရွာမြို့သင်္ချိုင်းရွှေ့ပြောင်းလိုက်၍ ထိုအုတ်ဂူပျက်စီးသွားပြီဖြစ်သည်။

*၃ လယ်တီဆရာတော်ဘုရားကြီး ပြန်လွန်တော်မူသောကိစ္စ သာစုကိဋ္ဌနသဘင်အတွက် နိုင်ငံလုံးဆိုင်ရာအစည်းအဝေးကြီးက ဆုံးဖြတ်စည်းဝေးပြဋ္ဌာန်းချက်အရပ်ရပ်များ။ သုဖြဟ္မဝံသပိဋကတ်ပုံနှိပ်တိုက်၊ မန္တလေးမြို့။ (စာမျက်နှာ–၁၁)။

စားခြင်းကို မမြစ်တားခဲ့။ အသက်သတ်ခြင်းကိုသာ မြစ်တားခဲ့ကြောင်း၊ သို့ဖြစ်၍ စားသူမှာ အပြစ်မရှိ၊ သတ်သူသာအပြစ်ရှိကြောင်း၊ အချို့က သစ်ပင်၌လည်း အသက်ရှိ၍ သစ်သီးသစ်ရွက်ကိုစားခြင်းသည်လည်း အပြစ်ဖြစ်ကြောင်း ပြောပြကြရာ တပည့်တော်ကျောင်းသားတို့မှာ ဓမ္မကျန္ဒာကျမ်းအစောင်စောင်တို့ကို ကောင်းစွာမတတ်ကြသည်လည်းတစ်ကြောင်း၊ ဗဟုသုတနည်းပါးကြပါ၍ ၎င်းအထက်အဆိုပါ ငြင်းခုံချက်တို့ကို သက်သေသာဓကနှင့်တကွ မျက်ဝါးထင်ထင် သိမြင်ကြစေရန် မည်သူမျှ ကောင်းစွာမပြောနိုင်ကြပါဘုရား။

သို့ဖြစ်ပါ၍ တပည့်တော်မှစ၍ အခြားကျောင်းသား ဒကာဒကာမများနှင့် အမျိုးလေးပါးတို့အား သိမှတ်သားရန် ကရုဏာရှေ့ထား၍ အထက်အဆိုပါ ခဲရာခဲဆစ်တို့ကို ဖြေကြားတော်မူပါမည့်အကြောင်း ရှိခိုးဝပ်တွားလျှောက်ထားပါသည် ကျေးဇူးတော်သခင် အရှင်မြတ်ကြီးဘုရား။

Mg Chit Pe
38, Curiamalane
Calcutta.

အသားစားရှောင်ကြဉ်မှုသည် ဟိန္ဒူဗြာဟ္မဏစသည့်ဝါဒတို့၌ အလွန်ကောင်းမြတ်သော ကျင့်စဉ်ဖြစ်ငြားလည်း မြတ်စွာဘုရားရှင်သည် ဗုဒ္ဓဘာသာ၌ အသားမစားရန် မပြဋ္ဌာန်းခဲ့ခြင်းအကြောင်းကိုအနှစ်ချုပ်၍ ဆရာတော်ဘုရားကြီးဖြေကြားတော်မူသည်မှာ–

'ဗုဒ္ဓဘာသာမှာ အသားစားမှုကိုရှောင်ကြဉ်ကြစေရန် အတင်းအကြပ်ပညတ်ခြင်း မရှိလေသတည်း။ ဤအရာ၌ပြောဆိုရန်ရှိပြန်သည်ကား အသားစားမှုကို မစွမ်းနိုင်သောသူတို့မှာ ဓမ္မတ္တရာယ်ကြီးဖြစ်သည်ဖြစ်စေ,မဖြစ်သည်ဖြစ်စေ ပုဂ္ဂိုလ်၏ အလိုကို ပမာဏမပြုသင့်, တရားကိုသာပမာဏပြုသင့်၏။ အထက်၌ထုတ်ဖော်ပြဆိုခဲ့သည့်အတိုင်း အသားစားခြင်းမှရှောင်ကြဉ်မှုသည် အလွန်ကောင်းမြတ်သော ကိုယ်ကျင့်တရားကြီးဖြစ်ပေက ထိုတရားကို ဗုဒ္ဓဘာသာမှာလည်း အသားစားခြင်းကြဉ်ရှောင်စေရန် ပညတ်ဖို့ကောင်းပါသည်ဟု ဆိုရန်ရှိ၏။ အဖြေကား– အသားစားခြင်းမှကြဉ်ရှောင်မှုသည် အလွန်ကောင်းမြတ်သော ကိုယ်ကျင့်တရားကြီးဖြစ်ပေသည်ဆိုငြားသော်လည်း ဗုဒ္ဓဘာသာမှာ အထက်အထက်သော သမထဘာဝနာ, ဝိပဿနာဘာဝနာ, မဂ်ဉာဏ်ဖိုလ်ဉာဏ်တရားတို့နှင့်နှိုင်းစာသော် ထိုသက်သတ်ရှောင်မှုသည် အလွန်အောက်ကျသော ကိုယ်ကျင့်တရားဖြစ်၍ သီလဝိသုဒ္ဓိဟူသော ပထမတန်း၏အခြေအရံမျှသာဖြစ်၏။ အသားစားမှုကိုမကြဉ်ရှောင်သော်လည်း ဝီရိယတရားကို လုံလောက်စွာအားထုတ်နိုင်ပါလျှင် မဂ်ဉာဏ်ဖိုလ်ဉာဏ်,ဈာန်,သမာပတ်အစရှိသော အထက်အထက်သောတရားကြီးတို့ကို ရောက်နိုင်ရနိုင်သည်သာဖြစ်၏။

ထိုကြောင့် ဗုဒ္ဓဘာသာမှာ အသားစားမှုကိုရှောင်ကြဉ်စေရန် အတင်းအကြပ်ပညတ်ခြင်းမရှိလေသတည်း' –ဟူ၍ဖြစ်ပါသည်။*[၁]

တစ်ဖန် ဗုဒ္ဓဘာသာ၌ လူနှင့်ရဟန်း အသားစားခြင်းနှင့်စပ်၍ကွဲပြားမှုရှိပြန်သည်ကို ဆရာတော်ဘုရားကြီးက–

'ဗုဒ္ဓဘာသာ၌ အသားစားမှုမှာ လူဖြစ်သူတို့နှင့် ရဟန်းဖြစ်သူတို့ အထူးရှိပြန်သည်ကား– လူဖြစ်သူတို့မှာ အထက်၌ပြဆိုခဲ့သည့်အတိုင်း သက်သတ်မှုတွင် ပါဝင်ထိုက်သော စိတ်စေတနာမျိုးမှ လွတ်ကင်းခဲ့သည်ရှိသော် စားလိုလျှင် စားရ၏။ ရဟန်းဖြစ်သူတို့မှာ အစွန်းသုံးပါးလွတ်ကင်းမှ စားအပ်လေသည်။

အစွန်းသုံးပါးကား– ဒိဋ္ဌတစ်ပါး၊ သုတတစ်ပါး၊ ပရိသင်္ကိတတစ်ပါးပေတည်း။ ထိုတွင် 'ဒိဋ္ဌ'ဆိုသည်ကား– ရဟန်းတို့ကိုကျွေးမွေးရန် သတ်ဖြတ်သည်ကို ရဟန်းကိုယ်တိုင် တွေ့မြင်သိရှိခြင်းသည် ဒိဋ္ဌမည်၏။ 'သုတ'ဆိုသည်ကား– ရဟန်းတို့ကိုကျွေးမွေးရန်သတ်သည်ဟု ကိုယ်တိုင်ကြားသိခြင်းသည် သုတမည်၏။ 'ပရိသင်္ကိတ' ဆိုသည်ကား– ရဟန်းတို့ကိုကျွေးမွေးရန် သတ်လေသလောဟု တွေးတောယုံမှားခြင်းသည် ပရိသင်္ကိတမည်၏။ ထိုသုံးပါးတို့တွင် တစ်ပါးပါးရှိနေခဲ့သော် ရဟန်းတို့မှာ ထိုအသားကိုမစားအပ်၊ ထိုသုံးပါးမှလွတ်ကင်းခဲ့သော် စားအပ်၏။ ဤကား လူနှင့်ရဟန်း အထူးပေတည်း။' –ဟူ၍ဖြစ်ပါသည်။*[၂]

သစ်သီးသစ်ရွက်တို့၌ အသက်ရှိသည်–ဟူသောအမေးနှင့်စပ်၍ ဆရာတော်ဘုရားကြီးက–

'ဤအယူအဆသည် ကမ္ဘာအရိုးအစဉ်နှင့်ဆန့်ကျင်သော အယူဖြစ်၏။ ကမ္ဘာ၏အရိုးအစဉ်ဆိုသည်ကား အမျိုးလေးပါးဗို့မှ တောထွက်ကြကုန်ပြီးလျှင် ရသေ့ရဟန်းပြုကြကုန်၍ သစ်ဥ သစ်မြစ်, သစ်ရွက် သစ်သီးတို့ကို စားသောက်ကြကုန်ပြီးလျှင် မေတ္တာကရုဏာအစရှိသော ဗြဟ္မဝိဟာရတရားတို့ကိုပွားများကြကုန်၍ သေသည်၏အခြားမဲ့၌ထိုက်သည်အားလျော်စွာ အထက်နတ်ပြည်တို့၌သော်လည်းကောင်း၊ ဗြဟ္မာပြည်၌သော်လည်းကောင်း ဖြစ်ကြရကုန်၏ဟု ကမ္ဘာအရိုးအစဉ်ရှိ၏။ သစ်သီးများကိုစားမှုသည်လည်း သက်သတ်ကံထိုက်၏ဟုအမှန်ယူခဲ့သော် ထိုရသေ့ရဟန်းတို့သည် နတ်ပြည် ဗြဟ္မာပြည်သို့မသွား၊ သစ်ဥ,သစ်မြစ်,သစ်ရွက်,သစ်သီးတို့ကိုစားသောက်မှုကြောင့် အပါယ်လေးပါးသို့သာကျရောက်ကြလေကုန်ရာ၏' –ဟူ၍လည်းကောင်း။

'သစ်ပင်ချုံမြက်တို့မှာ သတ္တဝါတို့ကဲ့သို့ အာယု, ပါဏဇီဝိတဟူသော မုချအသက်မျိုးမရှိ။ 'ဟရိတ' ခေါ်သော စိမ်းရှင်ပေါက်ရောက်ကြီးပွားစေတတ်သောတေဇောဓာတ်အထူးကိုအစွဲပြု၍ ထိုဓာတ်ရှိနေလျှင် 'အရှင်'ဟုခေါ်ရသည်။ ထိုဓာတ်

---

*၁ လယ်တီဆရာတော်ကြီး၏ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်ကျမ်းကြီး၊ ပထမတွဲ။ (စာမျက်နှာ–၉၇)။

*၂ ယင်း။ (စာမျက်နှာ–၉၈၊ ၉၉)။

ပြင်သစ်ပြည် ပါရစ်မြို့တော် ပညာရှိလူကြီးမင်းများက၊ ဗုဒ္ဓဘာသာ တရားကျမ်းဂန်နှင့်စပ်၍ထုတ်ဘော်ရေးသားလိုက်သော အမေးပုစ္ဆာ ၅ ရပ်နှင့်၊
ကာလကတ္တားမြို့ထိပ်ဖြူကျောင်းကြီးနေ၊ "မောင်ချစ်ဘော" မေးမြန်းလျှောက်ထားအပ်သော၊ "ကာလကတ္တား အသားစားမှုပုစ္ဆာ" တို့ကို၊
( မုံရွာမြို့ )

**လယ်တီဆရာတော်ဘုရားကြီး**

ဖြေဆိုတော်မူသည့်၊

**ပြင်သစ်ပုစ္ဆာဝိသဇ္ဇနာကျမ်း**

နှင့်၊

**ကာလကတ္တားအသားစားမှုပုစ္ဆာ**

ဝိသဇ္ဇနာကျမ်း၊

REGISTERED.

ရာဇဝတ်ဥပဒေ၊ အရ မှတ်ပုံတင်ထားသည်။

မန္တလေးမြို့၊
၁၄ လမ်း၊ ဘေးတန်း(ရှုမော်ဂျာနယ်)စာပုံနှိပ်တိုက်၊
၁၂၇၀ ခု၊ တပို့တွဲလ၊

ဝန်ထောက်မင်းဦးရွှေစံအောင်သည်၊ ပိဋကတ်စွမ်း အလျောက်၊ ချင့်ချိန်ယူအပ်သော၊ နိဗ္ဗာန်တရား၏ အကြောင်းအရာကို၊
မုံရွာမြို့

**လယ်တီဆရာတော်ဘုရားကြီး**

ထံလျှောက်ထားရာ၊ ဆရာတော်ဘုရားကြီးဖြန့်ကြား ဖြေဆိုတော်မူအပ်သော၊

**နိဗ္ဗာနဝိသဇ္ဇနာကျမ်း။**

နှင့်၊

ကင်းဝန်မင်းကြီးဆရာတော်ဘုရားရေးသား ဆုံးဖြတ်တော်မူအပ်သော၊

**အသင်္ခတဓမ္မပကာသနီကျမ်း၊**

နှစ်စောင်တွဲ၊

သက္ကရာဇ် ၁၂၇၁-ခု၊ တန်ခူးလအတွင်း ပုံနှိပ်၍ပြီးသည်၊

ရန်ကုန်မြို့၊
၂၅-လမ်း၊ စာဆိုတန်း၊ တိုက်နံပါတ်-၄၉
ကဝိမျက်မှန်စာပုံနှိပ်တိုက်၊

ပျော်ဘွယ်မြို့၊ သိမ်ကျောင်းတိုက်၊ ဦးပဥ္စင်း-ဦးသုရိယ လျှောက်ထားတောင်းပန်ချက်အရ၊ မုံရွာမြို့

**လယ်တီဆရာတော်ဘုရားကြီး**

သည်၊ များစွာသော-ရဟန်း-ရှင်-လူ အပေါင်းတို့အား၊
ကစ်ကြီး-၃-ပါး မှကင်းလွတ်စေခြင်း၊ မဂ်ဖိုလ်နိဗ္ဗာန်ကို လျင်မြန်စွာရောက်စေခြင်းအကျိုးငှါ၊ ကောင်းစွာ ရေးသားစီရင်တော်မူအပ်သော

**မဟာသရဏာဂုံကြီး။**

နေ့စဉ်မပြတ်ရွတ်ဘတ်သရဏာယ်နိုင်ကြ ပါစေကုန်သတည်း၊

သက္ကရာဇ် ၁၂၈၅-ခု၊ တန်ခူးလအတွင်း ပုံနှိပ်၍ပြီးသည်၊

ရန်ကုန်မြို့၊
၂၅-လမ်း၊ စာဆိုတန်း၊ တိုက်နံပါတ်-၆၃၊
ကဝိမျက်မှန်စာပုံနှိပ်တိုက်၊

( မအေးမေ၊

ကျေးရူးတော်ရှင်
လယ်တီဆရာတော်ဘုရားကြီး
ဘဝနတ်ထံ စံလွန်တော်မမူခါနီး
ဘုရားရှင်၏ ကျေးဇူးတော်အရံ ဂုဏ်တော်အနန္တ
ကို
ကျင့်ဝတ်ပဋိပတ်ဖြင့် ကျေးဇူးဆပ်သွားတော်မူသော

**ကျေးဇူးဆပ်နည်းနိဿယ**

ဆရာ့-ဆရာကိုကျော်ညွှန့်တို့၊ ကြီးကြပ်ပြင်ဆင်သည်၊

(စာအုပ်ရှင် လယ်တီ-ဦးလှတင်)

ရန်ကုန်မြို့၊ ဇမ္ဗူ့ မိတ်ဆွေပိဋကတ်ပုံနှိပ်တိုက်၊

၁၃၁၅-ခုနှစ်၊
( တအုပ် ၁-ကျပ် နှင့် အပြား-၅၀၊ )

မရှိလျှင် 'အသေ'ဟုခေါ်ရသည် ဟူသောအယူကိုသာ အမှန်အားဖြင့် ယုံကြည်လေးမြတ် မှတ်ယူကုန်ရာ၏'ဟူ၍လည်းကောင်း ဖြေကြားတော်မူခဲ့ပါသည်။*၁

**အတ္တ,အနတ္တနှင့် သခ်တ,အသခ်တပုစ္ဆာများ**

လယ်တီဆရာတော်ဘုရားကြီး မုံရွာမြို့ လယ်တီတောရဥ်ဝါကပ်နေတော်မူစဉ်အတွင်း ဒုတိယမြောက်ရောက်ရှိလာသောအမေးပုစ္ဆာမှာ သီဟိုဠ်ကျွန်း ကိုလံဗိုမြို့ သီဟိုဠ်သားကျောင်းဆရာကြီးတစ်ဦး၏ အသားစားခြင်းနှင့် အတ္တ,အနတ္တအမေးပုစ္ဆာတို့ပင်ဖြစ်သည်။*၂ ထို့ပြီးနောက် တတိယမြောက်ရောက်ရှိလာသောအမေးပုစ္ဆာမှာ ဆရာတော်ဘုရားထံတော်ပါး၌ ဝါကပ်ဆိုနေသော ကြို့ပင်ကောက်မြို့ ကျွန်းကုန်းကျောင်းဘုန်းတော်ကြီးဦးဒီပ၏ သခ်တ,အသခ်တအကြောင်းမေးလျှောက်ချက်ပင်ဖြစ်ပါသည်။*၃

**မဟာသရဏဂုံကြီးပူဇော်ခြင်း*၄**

လယ်တီဆရာတော်ဘုရားကြီးသည် လွန်ခဲ့သော သက္ကရာဇ် ၁၂၇၉–ခုနှစ် နှစ်စ ကဆုန်လ (အေဒီ ၁၉၁၇–ခုနှစ်၊ ဧပြီလ)က တပည့်ရင်း ပျော်ဘွယ်မြို့ သိမ်ကျောင်းဘုန်းကြီးဦးသူရိယတောင်းပန်သည့်အတွက် မဟာသရဏဂုံတော်ကြီးကို ရေးသားပေးတော်မူပြီးနောက်၊ ယခုသီတင်းဝါလကျွတ်သောအခါ အလုံမြို့ ကြီးတွင်းတောရကြီးအတွင်းသို့ကြွတော်မူပြီး၊ ထိုအရပ်၌ (၅)လတိုင်တိုင်သီတင်းသုံးနေကာ မဟာသရဏဂုံတော်ကြီးကို အထပ်ထပ်သရဇ္ဈာယ်တော်မူခဲ့ပါသည်။ ထိုစဉ်အခါက ဆရာတော်ဘုရားကြီးနှင့်အတူ အလုပ်အကျွေးအဖြစ်လိုက်ပါခွင့်ရခဲ့သော ဦးဝဏ္ဏိတ*၅ က ကြီးတွင်းတောရကြီးအတွင်း ဆရာတော်ဘုရားကြီး မဟာသရဏဂုံတော်ကြီးရွတ်ဆိုပူဇော်တော်မူပုံအကြောင်းကို အောက်ပါအတိုင်းမှတ်တမ်းတင်ရေးသားခဲ့ပေသည်။

သက္ကရာဇ် ၁၂၇၉–ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် ၈–ရက်နေ့ (အေဒီ–၈၊ အောက်တိုဘာလ၊ ၁၉၁၇–ခုနှစ်) ဥပုသ်သီတင်းဆောက်တည်ကြ၍ တရားနာကြရန်

---

*၁ လယ်တီဆရာတော်ကြီး၏ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်ကျမ်းကြီး၊ ပထမတွဲ။ (စာမျက်နှာ–၁၀၄)။

*၂ ယင်း။ (စာမျက်နှာ ၂၄၄–၂၇၄)။

*၃ ယင်း။ (စာမျက်နှာ ၄၈၄–၄၉၈)။ လယ်တီဆရာတော်ဘုရားကြီး ၁၂၇၉–ခုနှစ် မုံရွာမြို့ လယ်တီတောရဥ်ဝါကပ်စဉ်အတွင်းဖြေဆိုတော်မူသော အသားစားပုစ္ဆာ၊ အတ္တ,အနတ္တပုစ္ဆာ၊ သခ်တ, အသခ်တပုစ္ဆာ– ဤပုစ္ဆာ(၃)ရပ်တို့နှင့် အဖြေတို့ကိုနောင်သောအခါ ကြို့ပင်ကောက်မြို့ ကျွန်းကုန်းကြီးဘုန်းကြီးဦးဒီပက 'သခ်တ,အသခ်တအဖြေကျမ်း' အမည်ဖြင့် စာတစ်အုပ်ပြုလုပ်၍ ပုံနှိပ်ခဲ့ပါသည်။ လယ်တီဆရာတော်ကြီး၏ သခ်တ,အသခ်တအဖြေကျမ်း။ ဇမ္ဗူမိတ်ဆွေပိဋကတ်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၂၀–ပြည့်နှစ်။ (စာမျက်နှာ–၁)။

*၄ ဤမဟာသရဏဂုံတော်ကြီးကိုပင် လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)က 'ကျေးဇူးဆပ်နည်းနိဿယည်း' ဟူ၍လည်း ခေါ်ဝေါ်သုံးနှုန်းပါသည်။ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၉၄)။

*၅ ဦးဝဏ္ဏိတသည် ဆရာတော်ဘုရားကြီးနှင့်အတူ ကြီးတွင်းတောရသို့လိုက်ပါသည်ဆိုရာ၌ ထိုတောရသို့ လယ်တီဆရာတော်ဘုရားကြီးအားပို့ဆောင်ရုံမျှသာဖြစ်သည်။ ထိုတောရအတွင်း ဆရာတော်ဘုရားကြီး (၅)လတိုင်တိုင်သီတင်းသုံးနေတော်မူရာထို(၅)လကာလပတ်လုံး ဆရာတော်ဘုရားကြီးနှင့်အတူ သီတင်းသုံးနေတော်မူခြင်းမဟုတ်ပေ။ ထိုစဉ်က ဆရာတော်ကြီးနှင့်အတူ ကြီးတွင်းတောရ၌အတူသီတင်းသုံးနေခဲ့သူမှာ အလုံမြို့ ရွှေကျောင်းဘုန်းကြီးဦးဉာဏဝံသခေါ် ဦးစံရှိန်သာဖြစ်သည်။

လယ်တီတိုက်ကျေးဇူးတော်ရှင်ဆရာတော်ဘုရားကြီး၏ရှေ့တော်မှောက်သို့ဆိုက်ရောက်လာကြသော မုံရွာမြို့ တရုတ်တန်းလယ်တီအလယ်ဘုရားအုတ်ကျောင်းတော်ကြီး ဒါယကာဦးကြယ်၊ အဘိဓမ္မာဆရာကြီးဦးသဲ၊ ကျောင်းဒါယကာဦးလူနီ၊ ကျောင်းဒါယကာဦးစံလှ၊ ကျောင်းဒါယကာဦးမြ၊ ဦးလှ၊ မိုလ်ကြီးဦးစံလင်း၊ ဆမုနိဘုရားဒါယကာဦးချစ်စု၊ ကျောင်းဆရာကြီးဦးဖေယျ၊ ကုန်သည်ဦးကံထူးမှစ၍ လူယောကျ်ားဥပါသကာများ၊ ဒေါ်ကောက်တေး၊ အမေရုံ၊ ဒေါ်ရွှေအိမ်၊ ကျောင်းဆရာမဒေါ်ပို၊ ဒေါ်စက်ရွှေ မသီလဝတီ၊ ဒေါ်စန္ဒာ–စသော ဥပါသိကာဆွမ်းချက်အမကြီးများ၊ ၎င်းပြင်တိုက်အုပ်ဦးဉာဏောဘာသ၊*၁ ဦးသုန္ဒရ၊ ဦးအာသဘ–စသော ထေရ်ကြီးထေရ်ငယ်များ၊ ဤသို့ စသောပရိသတ်တို့အား ကျေးဇူးတော်ရှင်ဆရာတော်ဘုရားကြီး မိန့်မြွက်တော်မူသည်မှာ–

'တိုင်းကျိုးပြည်ပြု သာသနာတော်မြတ်ကြီး၏အကျိုးကို မြော်ကိုးထောက်ထား၍ မြန်မာပြည်အထက်ပိုင်း, အောက်ပိုင်းရှိ မြို့ရွာနယ်ပယ်အသီးသီးတို့သို့ နှစ်ပေါင်း ၂၀–ခန့်လှည့်လည်ပြီး*၂ အဘိဓမ္မာတရားရင်းကြီးတို့ကို ငါတို့ တိုင်းရင်းသားမြန်မာလူမျိုးတို့ နားလည်ကြစေရန် ပါဠိမဘက် မြန်မာစကားပြင်*၃ သက်သက်ဖြင့် အချက်ကျစွာဟောမှု, ပြောမှု, သွန်သင်မှုအတွက် အဘိဓမ္မာဒေသနာတော်မြတ်ကြီးသည် နေဝန်းအလား လဝန်းအလား ကြွားကြွားစွင့်စွင့် အခွင့်အားလျော်စွာ ပွင့်လင်းထွန်းကား၍လာသည်မှာ အများရှင်လူတို့အသိပင်ဖြစ်ကြသည်။

ယခုအခါ ရေးကကြံရွယ်ရင်းရှိသည့်အတိုင်း နယ်လှည့်တရားဟောပြောမှုပလိဗောဓလုပ်ငန်းကြီးတို့ကို ရပ်ဆိုင်းပြီး မြတ်စွာဘုရား၏ကျေးဇူးတော်ကိုဆပ်ရန် အခွင့်အရေးကျန်ရှိနေသေးသဖြင့် လူ, ရှင်, ရဟန်းတို့ရောပြွမ်းခြင်းမရှိသော အလုံမြို့အရှေ့ ကြီးတွင်းတောရကြီးသို့သွား၍ ကျေးဇူးဆပ်လုပ်ငန်းကြီးကို တွင်ကျယ်စွာပြုလုပ်လိုသည်၊ ငါ၏ဝေယျာဝစ္စအမှုကြီးငယ်ကို ဆောင်ရွက်ရန် ရဟန်းဘက်က မောင်ဝဏ္ဏိတနှင့် လူဘက်က ကပ္ပိယတစ်ဦး၊ ၎င်းတို့နှစ်ဦးပါလျှင် သင့်လျော်ပြီ–ဟုအမိန့်တော်ရှိပြီး ၁၂၇၉–ခုနှစ်၊ သီတင်းကျွတ်လကွယ်နေ့ (အေဒီ–၁၄၊ အောက်တိုဘာလ၊ ၁၉၁၇–ခုနှစ်) မုံရွာလယ်တီတိုက်မှထွက်တော်မူ၍ ၎င်းနေ့ ၅–နာရီအချိန် ကြီးတွင်းတောရကြီးသို့ ချောမောစွာဆိုက်ရောက်တော်မူသည်။

---

*၁ ဦးဝဏ္ဏိတက ဦးဉာဏောဘာသကို ခေါ်ရိုးခေါ်စဉ်အတိုင်း 'တိုက်အုပ်' ဟုရေးသားခဲ့သော်လည်း ဤအချိန်၌ ဦးဉာဏောဘာသမှာ 'ဒုတိယလယ်တီဆရာတော်' အဖြစ်သို့ ရောက်ရှိတော်မူပြီဖြစ်သည်။

*၂ သက္ကရာဇ်–၁၂၆၂ (အေဒီ–၁၈၉၀)ခုနှစ်မှ သက္ကရာဇ်–၁၂၇၉ (အေဒီ–၁၉၁၇)ခုနှစ်အတွင်း (၁၇)နှစ်တာကာလကိုရည်ရွယ်၍ မိန့်ဆိုတော်မူခြင်းဖြစ်ပါသည်။

*၃ စကားပြေ–ကိုဆိုလိုသည်။

တန်ဆောင်မုန်းလဆန်း ၁-ရက်နေ့ (အေဒီ-၁၅၊ အောက်တိုဘာလ၊ ၁၉၁၇-ခုနှစ်)မှစ၍ တစ်နေ့နှင့်တစ်ညဥ့် ၂၄-နာရီလျှင် ဗုဒ္ဓမဟာသရဏဂုံတော်ကြီး၊ ဓမ္မမဟာသရဏဂုံတော်ကြီး၊ သံဃမဟာသရဏဂုံတော်ကြီးအကြိမ်ပေါင်း တစ်သောင်းလေးထောင်လေးရာ (၁၄၄၀၀) နေ့စဉ်မစဲ အမြဲမပြတ် ပုတီးစိပ်ကြီးပြုတော်မူရာ တပေါင်းလကွယ် (အေဒီ-၁၁၊ မတ်လ၊ ၁၉၁၈-ခုနှစ်)အထိ ၅-လတိုင်တိုင်ဖြစ်ပါသည်။ မဟာသရဏဂုံတော်ကြီးအကြိမ်ပေါင်း နှစ်သန်းတစ်သိန်းတစ်သောင်းခြောက်ထောင်ရှစ်ရာ (၂၁၁၆၈၀၀) ဖြစ်ပါသည်။

ဤကဲ့သို့ ၅-လတိုင်တိုင် ကြွနိုင်သောဝီရိယာဓိပတိ စိတ်ဓာတ်တော်ဖြင့် ကျေးဇူးဆပ်ပုတီးစိပ်ကြီး ဆုံးခန်းတိုင်မြောက် ပြီးစီးခြင်းသို့ရောက်တော်မူသောအခါ ကြီးတွင်းကြီးတောရမှ မုံရွာလယ်တီတိုက်သို့ကြွတော်မူလာပါသည်။*၁

**ဦးဝဏ္ဏိတအား ကိုယ်စားလှယ်ခန့်ထားခြင်း**

အလုံမြို့အရှေ့ ကြီးတွင်းကြီးခေါ် ကြီးခေါင်းတောကြီးအတွင်းရှိ တောရကျောင်း၌ လယ်တီဆရာတော်ဘုရားကြီးသီတင်းသုံးနေတော်မူစဉ် ဆရာတော်ဘုရားကြီးက 'မောင်ဝဏ္ဏိတ လာစေ' ဟု အမိန့်စာတစ်စောင်ကို မုံရွာမြို့လယ်တီတိုက်သို့ပေးပို့ခဲ့ပါသည်။ ဆရာတော်ဘုရားကြီး အမိန့်တော်အတိုင်း ဦးဝဏ္ဏိတရောက်ရှိလာလျှင် ဆရာတော်ဘုရားကြီးက 'မောင်ဝဏ္ဏိတ၊ ယခုအခါ အနယ်နယ်မှတရားဟောရန်ပင့်လျှောက်စာများ ငါတို့ထံရောက်ရှိနေသည်။ မောင်ဝဏ္ဏိတက ငါတို့ကိုယ်စား အနယ်နယ်သို့ကြွ၍ တရားဟောကြားပေးရမည်'ဟူ၍ အစချီပြီး တရားဟောသာသနာပြုအရေးကြီးပုံအကြောင်းတို့ကို အောက်ပါအတိုင်းမိန့်ကြားတော်မူပါသည်။

'ငါတို့မြန်မာပြည်အတွင်း၌မှီတင်းနေထိုင်ကြကုန်သော သံဃာတော်အရေတွက် သုံးသောင်းကျော် လေးသောင်းခန့်မျှရှိသော်လည်း စာချစာသင် တောနေတောင်စောင်းချောင်အောင်းပုဂ္ဂိုလ်တို့သာ များပြားချေသည်။ ထို့ကြောင့် ယခုအခါ ရဟန်းတော်တို့ဘောင်မှာသာ အသိအလိမ္မာ ဉာဏ်ပညာမျက်စိ အဆင့်ဆင့် ပွင့်လင်းလျက်ရှိနေကြသည်။ လူတို့၏ဘောင်မှာမူကား အသိအလိမ္မာမှာ ဉာဏ်ပညာမျက်စိ ပွင့်လင်းထက်သန်သလောက် မထက်သန်ကြဘဲ အားလျော့ခါသာနေကြလေသည်။

ထိုထိုမြို့ရွာတို့၌ ဘာသာခြားဘုရားရှိခိုးကျောင်းကြီးတွေ၊ သာသနာပြုစာသင်ကျောင်းကြီးတွေ၊ ဘာသာတရားဟောဆရာတွေ နှမ်းကြဲထားသလို များပြားစည်ကားနေသည်ကို မျှော်လိုက်ပါက လူတို့၏ဘောင်မှာ အသိအလိမ္မာ ဉာဏ်ပညာမျက်စိ အားနည်းဆုတ်လျော့နေပုံကို သိနိုင်လေသည်။ ဘာသာဘက်သို့ သွေးဆောင်၍ ဘာသာတရားဟောဆရာတို့ကလည်း ဉာဏ်ပညာမျက်စိ ပွင့်လင်းလျက်ရှိသော ရဟန်းတော်တို့ဘောင်မှာ မချဉ်းမကပ် မသီဝံ့ကြဘဲ ရှောင်လွှဲတိမ်းဖယ် ပုန်းကွယ်

*၁ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ ၁၉၄-၁၉၆)။

နိကပ် ဝေးရာအရပ်ကနေပြီးလျှင် လူတို့ကိုသာလျှင် ဟောပြောသွေးဆောင်ကာ နေကြလေသည်။

ဘာသာခြားဘက်သို့ပြောင်းသွားကြသော ဗုဒ္ဓဘာသာလူမျိုးတို့သည် တစ်နေ့ တခြား များပြားလျက်ရှိနေသည်ကို ဆရာတော် တွေ့မြင်ကြားသိရသည့်အတွက် အသည်းနာစရာကောင်းလှပေ၏။ နောက်အနှစ်-၂၀ ကျော်လျှင် ဘာသာခြားတရားဟောဆရာတွေအားရှိ၍ ထခွင့်ကြွခွင့်ရခွင့်ရကြပြီးလျှင် ဗုဒ္ဓဘာသာ၏အကိုင်းအခက် အလက်တို့ကို ဖျက်ဆီးချိုးဖဲ့ တရွှဲ့တစောင်း ထောင်းထောင်းကြေအောင် ချေမှုန်းမည်ကို အတပ်သိမြင်ကြသဖြင့် ယခုကတင်ကြို၍ ဗုဒ္ဓဘာသာခံတပ်ကြီးများကို ပြုပြင်ရန် အရေးအခွင့်ဆိုက်ရောက်လျက်ရှိ၏။

ခံတပ်ကြီးများဆိုသည်ကား လူတို့ဘောင်၌ အသိအလိမ္မာဉာဏ်ပညာမျက်စိ ပွင့်လင်းအောင် ဟောမှု,ပြောမှု,ဆုံးမမှု ဓမ္မကထိကတရားဟောဆရာတို့ကိုဆိုပေသည်။ မြို့ရွာမှာရှိသောလူတို့အတွက် မြို့ရွာရှိသံဃာတော်များတာဝန်ဖြစ်၏။ မိမိတို့ ကျောင်းဒါယကာ,ဒါယိကာမ၊ ဆွမ်းဒါယကာ,ဒါယိကာမတို့ကို ကျောင်းထိုင်ဘုန်းကြီးတို့၏တာဝန်ပင်ဖြစ်၏။ ကျောင်း,ဘုရား မရှိသော တောင်ကြိုတောင်ကြား လူရိုင်းအများတို့ကိုလည်း လစ်လျူမထားဘဲ နယ်လှည့်ဓမ္မကထိကပုဂ္ဂိုလ်တို့၏တာဝန်ဖြစ်၏။ ထို့ကြောင့် ဗုဒ္ဓဘာသာကြီး၏မျက်နှာတော်ကိုထောက်၍ မြို့ပေါ် ရပ်ပေါ် ရွာပေါ်ရှိ သံဃာတော်တို့နှင့် နယ်လှည့်ဓမ္မကထိကပုဂ္ဂိုလ်တို့က ဟောပြောမှုတာဝန်ကြီးကို ကိုယ်စီကိုယ်ငှထမ်းရွက်ကြ၍ ဆိုင်ရာဆိုင်ရာဒါယကာ,ဒါယိကာမတို့ကို အသိအလိမ္မာဉာဏ်ပညာမျက်စိပွင့်လင်းရန် ခန္ဓာ, အာယတန, ဓာတ်, သစ္စာ, ပဋိစ္စသမုပ္ပါဒ်ဒေသနာ အဘိဓမ္မာတရားတို့ကိုဟောပြောရမည်။

ဆရာတော်မှာလည်း နှစ်ပေါင်း-၂၀ ကျော် တိုင်းသူပြည်သားတို့အကျိုး သာသနာတော်မြတ်ကြီး၏အကျိုးကိုမျှော်၍-

၁။ ယစ်မျိုးငါးပါးသောက်မှု, စားမှု, ခိုးမှု, တိုက်မှု, မိုက်မဲမှုတို့ကို ပပျောက်စေ၍ နိုင်ငံမြို့ရွာ သာယာငြိမ်သက်ရှိကြစေရန် အားထုတ်ခြင်းတစ်ပါး၊

၂။ ထိုထိုမြို့ရွာတို့မှာ လူတို့၌လည်းကောင်း၊ ကျွဲ,နွားတိရစ္ဆာန်တို့၌လည်းကောင်း ကျရောက်ဖြစ်ပွားလျက်ရှိနေသော ပုလိပ်ဖျားရောဂါ၊ တုပ်ကွေးဖျားရောဂါ၊ ကာလဝမ်းရောဂါ၊ ကျောက်ဆိုးကြီးရောဂါ အစရှိသော အနာဆိုး,ရောဂါဆိုး ကပ်ဥပဒ်မျိုးတို့ကို ဆရာတော်ကိုယ်တိုင်သွားရောက်၍ နေ့ချင်းညချင်း ပျောက်ကင်းအောင် ပြုလုပ်မှုတစ်ပါး၊

၃။ ဗုဒ္ဓဘာသာလူမျိုးတို့ကို မိမိတို့ဘာသာ၌ စိတ်စေတနာခိုင်မြဲစွာ တည်ကြစေရန် ပြောဟောမှုတစ်ပါး-

ဤအချက်ကြီး ၃-ချက်တို့ကိုဆောင်ရွက်ခဲ့ပေကြောင်း။

ဆရာတော်မှာ ယခုအခါ မကျန်းမမာ စက္ခုရောဂါစွဲကပ်လာသည်ဖြစ်၍ ထိုထိုမြို့ရွာဌာနတို့သို့ ရှေးအခါကလို လှည့်လည်သွားလာဟောပြောခြင်းငှာ အခွင့်မသာရှိနေခိုက် တပည့်မောင်ဝဏ္ဏိတကို ဆရာတော်၏ကိုယ်စားပြုလုပ်၍ မြန်မာပြည်အောက်ပိုင်း,အထက်ပိုင်း ဒိစတြိတ်မြို့ရွာနယ်ပယ်တို့ကို လှည့်လည်ပြီး အဘိဓမ္မာသာသနာပြုရန်၊ ဆရာတော်၏ဟောပြောချက်အတိုင်း ပုရပိုက်စာအုပ်လွှတ်တို့၌ မှတ်ချက်တင်ကာထားရမည်။

အဘိဓမ္မာတရား ဟောပြောလိုသောသူတို့အတွက်လည်း လယ်တီဟောကိန်းမှုသစ်တစ်ခု ရနိုင်လိမ့်မည်ဖြစ်ကြောင်း၊ သို့အတွက် ဆရာတော်၏နောက်က ဝတ်ကြီးဝတ်ငယ်ပြု၍ အရပ်ရပ်ဟောပြောသော တရားစကားများကို မှတ်ချက်တင်ကာထားရမည်'ဟူ၍ ဆရာတော်ဘုရားကြီးအမိန့်တော်ရှိပါသည်။*၁

အထက်ပါမိန့်ခွန်းတော်ကိုထောက်ဆခြင်းအားဖြင့် ဆရာတော်ဘုရားကြီးသည် ဇရာဒုဗ္ဗလဖြစ်၍ မိမိ၏ဇီဝိတအန္တရာယ်စသောအခြေအနေတို့ကို ကြိုတင်အကဲခတ်မိတော်မူသဖြင့် မိမိလုပ်ဆောင်ဖွယ်ရှိသောသာသနာပြုလုပ်ငန်းတို့တွင် ပြည်တွင်းဒေသအသီးသီးသို့လှည့်လည်၍ တရားဟောပြောခြင်းအလုပ်ကို တပည့်ဖြစ်သူဦးဝဏ္ဏိတအား လွှဲပြောင်းတာဝန်ပေးအပ်တော်မူခဲ့ခြင်းပင်ဖြစ်သည်။ ဤသို့ တပည့်ဖြစ်သူဦးဝဏ္ဏိတအား တရားဟောရန်တာဝန်ပေးထားသော်လည်း အချို့သောနေရာဌာနတို့၌မူ ဆရာတော်ဘုရားကြီးကိုယ်တော်တိုင် တရားဟောတော်မူမြဲဖြစ်ပါသည်။

**ဦးရွှေဖံအောင်ထံမှနိဗ္ဗာန်ဆိုင်ရာလျှောက်ထားလွှာ**

လယ်တီဆရာတော်ဘုရားကြီး အလုံမြို့အရှေ့ ကြီးတွင်းတောရအတွင်း သီတင်းသုံးနေတော်မူစဉ် ဆရာတော်ဘုရားကြီးရေးသားပြုစုသော ဒီပနီကျမ်းစာများကို အင်္ဂလိပ်ဘာသာသို့ပြန်ဆိုရန် တာဝန်ယူထားသည့် တပည့်ဒါယကာ ဝန်ထောက်ဦးရွှေဖံအောင်ထံမှ နိဗ္ဗာန်ဆိုင်ရာအမေးပုစ္ဆာစာလွှာတစ်စောင်သည် ဆရာတော်ဘုရားကြီး၏ထံတော်သို့ ရောက်ရှိလာပါသည်။*၂

ဦးရွှေဖံအောင်၏ နိဗ္ဗာန်ဆိုင်ရာလျှောက်ထားလွှာကို လယ်တီဆရာတော်ဘုရားကြီးက အောက်ပါအတိုင်းဖြေကြားတော်မူပါသည်။

---

*၁ ဤစကားတော်များကို အလုံမြို့ ရွှေကျောင်းဘုန်းကြီးဦးစံချိန်(ဦးဉာဏဝံသ)က မှတ်တမ်းတင်ထားပါသည်။ လယ်တီဆရာတော်ကြီး၏ လယ်တီဟောကိန်းတရားစာ၊ ပဥ္စမတွဲ။ အမျိုးသားစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ-၁၂)။ လယ်တီဦးဝဏ္ဏိတသည် ဆရာတော်ဘုရားကြီး၏နောက်တော်ပါးမှ ၁၂၇၉-ခုနှစ်၊ တန်ခူးလဆန်း ၁၅-ရက် (အေဒီ-၂၆၊ မတ်လ၊ ၁၉၁၈-ခုနှစ်)နေ့မှစ၍လိုက်ပါရကြောင်း လယ်တီတရားသတင်းစာ၌ အမှတ်အသားရှိပါသည်။

*၂ လယ်တီဆရာတော်ကြီး၏ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်ကျမ်းကြီး။ ပထမတွဲ။ (စာမျက်နှာ ၄၉၈-၅၀၁)။

နိုင်ငံခြားဗုဒ္ဓဘာသာသာသနာပြုအသင်းကြီးတွင် အကြီးအချုပ်ဖြစ်တော်မူသော လယ်တီဆရာတော်ထံမှပေးစာ။

၁၂၇၉–ခု၊ တန်ဆောင်မုန်းလဆန်း ၄–ရက်နေ့။ *၁

မောင်ရွှေဖံအောင် လျှောက်လွှာပါ တေနာဟ ကေဠီသစ္စံ နဒုတီယမတ္ထီတိ– ဟူသော ဝိသုဒ္ဓိမဂ်ဋီကာ။ ဥပသမာနုဿတိ–အဖွင့်စာမျက်နှာနံပါတ် ၂၉၂၊ စာကြောင်းရေ ၂၃ ၌ အဓိပ္ပာယ်ကား– 'တဏှာ၏အကြွင်းအကျန်မရှိ ချုပ်ငြိမ်းခြင်းတစ်ခုသည်သာလျှင် ဒုက္ခ၏ချုပ်ငြိမ်းခြင်း အမှန်အစစ်ဖြစ်၏။ ဤမှတစ်ပါး တိတ္ထိဆရာတို့ ဟောအပ်သော နှစ်ခုမြောက်ဖြစ်သော ဒုက္ခချုပ်ငြိမ်းခြင်း အမှန်အစစ်မည်သည် မရှိ'ဟု ဆိုလိုသည်။

ပြင်သိ၊ အတွင်းသိဟူသော သိခြင်းနှစ်ပါး၌ ပြင်သိဆိုသည်ကား ပုထုဇဉ်အဖို့၌ တည်ရှိကြကုန်သော ဝိပဿနာယောဂီပုဂ္ဂိုလ်တို့၏ အနုဗောဓဉာဏ်ကို ဆိုသတည်း။ အနုဗောဓဉာဏ်ဆိုသည်ကား မဂ်ဉာဏ်၏ကိစ္စဖြစ်သော ပဋိဝေဓ ခေါ်သော ထိုးထွင်းခြင်းသို့မရောက်မီ ရှေးအဖို့၌ လက္ခဏာရေးသုံးပါးကို အာရုံပြု၍ ဖြစ်သော ဝိပဿနာဉာဏ်သုံးပါးကို 'အနုဗောဓ' ခေါ်သည်။

အတွင်းသိဆိုသည်ကား မဂ်ဉာဏ်၏ကိစ္စဖြစ်သော ထိုးထွင်း၍သိခြင်းသို့ရောက်သော အရိယာပုဂ္ဂိုလ်တို့၏ 'ပဋိဝေဓဉာဏ်' ကိုဆိုသတည်း။

အရိယာပုဂ္ဂိုလ်တို့သည် အရိယာမဂ်ဉာဏ်၏ခဏ၌ သစ္စာလေးပါးကိုထိုးထွင်း၍ သိခြင်းတည်းဟူသော ပဋိဝေဓဉာဏ်သို့ ရောက်ကြလေကုန်၏။ ထိုတွင် ဒုက္ခသစ္စာကို ထိုးထွင်း၍သိခြင်းဆိုသည်ကား ဒုက္ခသစ္စာကိုဖုံးလွှမ်း လျက်ရှိနေသော မောဟတရားကို ပယ်သတ်ခြင်းတည်း။ သမုဒယသစ္စာကို ထိုးထွင်း၍သိခြင်းဆိုသည်ကား တဏှာကို ပယ်ခြင်းတည်း။ နိရောဓသစ္စာကို ထိုးထွင်း၍သိခြင်းဆိုသည်ကား ထိုတဏှာ၏ ချုပ်ငြိမ်းခြင်းဟူသော နိဗ္ဗာန်ကို အာရုံပြုခြင်းတည်း။ မဂ္ဂသစ္စာကို ထိုးထွင်း၍သိခြင်း ဆိုသည်ကား မဂ္ဂင်ရှစ်ပါးတို့ကို တစ်လုံးတစ်စည်းတည်း ဖြစ်ပေါ်စေခြင်းတည်း။

ဤသို့ ကိစ္စလေးပါးသည် မဂ်ခဏ၌ တစ်ပြိုင်နက်တစ်ချက်တည်းပြီးစီး၍ သွားသည်ရှိသော် ထိုပုဂ္ဂိုလ်သန္တာန်မှာ ထိုခဏမှစ၍ သစ္စာလေးပါးကိုဖုံးလွှမ်း တတ်သော အမိုက်တရားသည်ပျောက်ကင်း၍ ထိုပုဂ္ဂိုလ်မှာ သစ္စာလေးပါးတရား တို့သည် အခါခပ်သိမ်း အထင်အလင်းဖြစ်၍တည်လေကုန်၏။ ထိုပုဂ္ဂိုလ်သည် ဘယ်အခါမဆို အလိုရှိသောအခါ အလိုရှိသောသစ္စာကို လွယ်ကူစွာအာရုံပြု၍ ကြည့်ရှုနိုင်၏။ ဤသို့ဖြစ်သည်ကို သစ္စာလေးပါးကိုထိုးထွင်း၍သိခြင်းဟုဆိုသတည်း။

*၁ အေဒီ–၁၈၊ အောက်တိုဘာလ၊ ၁၉၁၇–ခုနှစ်။

ဥပမာကား-တစ်ယောက်သောသူမှာ မျက်စိနှစ်ဖက်တို့၌ တိမ်သလ္လာတွေ ထူထပ်စွာဖုံးလွှမ်း၍နေ၏။ တစ်ခုသောအဆင်းကိုမျှ မမြင်ရရှိနေ၏။ တစ်ရံသော အခါ ထိုသူမှာ ဝိဇ္ဇာမယပညာလမ်းမှဖြစ်သော အလွန်ကောင်းမြတ်သော မျက်စဉ်း ဆေးတစ်ခုကို ရလေ၏။ ထိုသူသည် အိပ်ရာ၌လျောင်း၍ ထိုမျက်စဉ်းကို မျက်စိ နှစ်ဖက်၌ခပ်၍အိပ်လေ၏။ ထိုသူသည် မျက်စိနာဒုက္ခဖြင့် နေ့ရက်များစွာ မအိပ်ရ ရှိသည်နှင့် ထိုမျက်စဉ်းအတွက် ချမ်းသာသုခရသဖြင့် အိပ်စက်၍ အပျော်ကြီး ပျော်လေ၏။ ထိုမျက်စဉ်း၏အာနိသင်ကြောင့် တိမ်သလ္လာတို့သည် ခဏချင်း အကုန် ကင်းပျောက်၍ မျက်စိတို့သည် မိမွေးတိုင်းဖမွေးတိုင်း အလင်းရကုန်၏။ ထိုသူသည် မူကား အိပ်ပျော်ကျူးသည်ဖြစ်၍ နံနက်မိုးသောက်မှ နိုးလေ၏။ မျက်လုံးတို့သည် မူကား ထိုည၌သန်းခေါင်မတိုင်မီကပင် အလင်းရကြကုန်၏။ အလင်းရသည်နှင့် တပြိုင်နက် ထိုသူသည် သူအများကဲ့သို့ အဆင်းတို့ကိုမြင်နိုင်စွမ်းသောအဖြစ်သို့ ရောက်လေ၏။ ထိုသူ မျက်စိမြင်ပြီဟူ၍ ဆိုထိုက်လေ၏။ အိပ်ပျော်၍နေသည့် အတွက်ကြောင့်မူကား ဘယ်အဆင်းကိုမျှ အာရုံမပြုရသေး။ ဤဥပမာအတိုင်း မှတ်လေ။

ထိုအတွင်းသိ, အပြင်သိနှစ်ပါးတွင် အပြင်သိခေါ်သော အနုဗောဓဉာဏ်၏ သိခြင်းသည် ခန္ဓာတို့၏ဖြစ်မှု, ရင့်မှု, ပျက်မှုတို့ကို ပဋိဝေဓဉာဏ် ပေါက်ရောက် နိုင်ရန် လျော်ကန်စွာမျှသာ သိနိုင်လေ၏။ ဟုတ်မှန်သည့်အတိုင်း အလင်းပေါက် အောင် ထိုးထွင်း၍သိနိုင်သည်မဟုတ်သေး။ အတွင်းသိခေါ်သော ပဋိဝေဓဉာဏ်၏ သိခြင်းသည်ကား ခန္ဓာတို့၏ဖြစ်မှု, ရင့်မှု, ပျက်မှုတို့ကို ဟုတ်မှန်သလောက် အလင်း ပေါက်အောင် ထိုးထွင်း၍သိနိုင်လေ၏။

ထိုကြောင့် မြစ်ရေအယဉ်ကဲ့သို့ တသွင်တည်းစီးလျက်နေသော ရုပ်ခန္ဓာ၏ ပရမတ္ထခန္ဓာအစဉ်တစ်ခုကို အပြင်ကနေ၍ရှုသော ပုထုဇဉ်ဉာဏ်အား ၎င်းခန္ဓာသည် ခဏတ္တယသို့ ရောက်တတ်သောတရားဟု လျော်ကန်စွာထင်မြင်လေ၏။ အတွင်းက နေ၍ရှုသော အရိယာဉာဏ်အား ထိုခန္ဓာသည် ခဏတ္တယသို့ ရောက်မှုနှင့်တကွ အလင်းပေါက်အောင် ထိုးထွင်း၍သိမြင်လေ၏။

ထိုအတူ မြစ်ရေ၌စီးသွားသော ရေပေါက်ဥပမာကဲ့သို့ ထိုခန္ဓာအစဉ်၌လည်း ပရမတ္ထတရားတို့ အစဉ်မပြတ် ပြောင်းလဲရွေ့သွားနေသည်တွင် ရှေးခဏ၌ဖြစ်သော ပရမတ္ထတရားတို့သည် ချုပ်ပြီးမှ နောက်ခဏ၌ တရားသစ်ဥပါဒ်သည်ဟု ဝိပဿနာ ယောဂီပုထုဇဉ်တို့၏ဉာဏ်တွင် အကြမ်းအားဖြင့်သာထင်မြင်နိုင်၏။ အရိယာပုဂ္ဂိုလ် တို့၏ဉာဏ်၌သာလျှင် ရှေးခဏဖြစ်သော ပရမတ္ထတရားတို့သည် ချုပ်ပြီးသည်မှ

နောက်ခဏာ၌ တရားသစ်ဥပါဒ်သည်ဟု ဟုတ်မှန်သည့်အတိုင်း အလင်းပေါက်အောင် ထိုးထွင်းထင်မြင်နိုင်လေ၏'–

အစရှိသည်ဖြင့် ဖြေဆိုတော်မူခဲ့ပြီး၊ ထိုအဖြေလွှာ၏အဆုံးတွင် ဆရာတော်ဘုရားကြီးက အောက်ပါမှတ်ချက်စကားရပ်ကို ရေးသားတော်မူခဲ့ပါသေးသည်။ ယင်းစကားရပ်မှာ–

'ဤဖြေဆိုချက်နှင့် မကျေမလည်ရှိသေးလျှင် ထပ်မံ၍လျှောက်။

သတိပေးချက်– ဤကဲ့သို့ နက်နဲသောတရားအချက်ကြီးများကို ဆုံးဖြတ်ရာ၌ အစွန်အဖျားဖြစ်သော ဋီကာစကားအတိုအနှောင်းများကို အားကိုးအားထားမပြုရာ၊ ပါဠိတော်ကြီးများကိုသာ အားကိုးအားထားပြုရာ၏'[*၁]–ဟူ၍ဖြစ်ပါသည်။

**စစ်ကိုင်း စိတ္တသုခချောင်**

လယ်တီဆရာတော်ဘုရားကြီးသည် အလုံမြို့အရှေ့တောရ၌ သက္ကရာဇ် ၁၂၇၉–ခုနှစ်၊ တန်ခူးလဆုတ် ၅–ရက်နေ့ (အေဒီ–၃၁၊ မတ်လ၊ ၁၉၁၈–ခုနှစ်)အထိသီတင်းသုံးပြီး၊ ထိုမှ မုံရွာမြို့ လယ်တီတောရကြီးသို့ ပြန်လည်ကြွမြန်းတော်မူပါသည်။ သက္ကရာဇ် ၁၂၇၉–ခုနှစ်၊ တန်ခူးလဆုတ် ၁၀–ရက် (အေဒီ–၅၊ ဧပြီလ၊ ၁၉၁၈–ခုနှစ်)တွင် စစ်ကိုင်းတောင်ရိုး စိတ္တသုခချောင်သို့ ကြွတော်မူပါသည်။[*၂] သက္ကရာဇ် ၁၂၈၀–ပြည့်နှစ်၊ ကဆုန်လ (အေဒီ ၁၉၁၈–ခုနှစ်၊ ဧပြီလ)တွင် လယ်တီဆရာတော်ဘုရားကြီးသည် စစ်ကိုင်းတောင်ရိုး စိတ္တသုခချောင်၌ သီတင်းသုံးနေတော်မူပါသည်။ ဆရာတော်ဘုရားကြီး၏ကျန်းမာရေးကို တပည့်များက ဂရုတစိုက် စောင့်ကြပ်ကြည့်ရှုနေကြပါသည်။ ဆရာတော်ဘုရားကြီးကမူ ကျန်းမာရေးအခြေအနေကောင်းလျှင် ကောင်းတော်မူသည်နှင့်အမျှ လုပ်ဆောင်ဖွယ်ရှိသည့်ကိစ္စတို့ကို မဆိုင်းမတွလုပ်ဆောင်တော်မူပြီး၊ ကျန်းမာရေးအခြေအနေမကောင်းမှသာ ငြိမ်သက်စွာစံနေတော်မူလေ့ရှိပေသည်။ အခြားသက်ကြီးသူအိုပုဂ္ဂိုလ်တို့ကဲ့သို့ 'ငါ့ကျန်းမာရေးမကောင်း'ဟု ငြီးငြီးတွားတွား လဲလဲလျောင်းလျောင်းနေတော်မူလေ့မရှိပေ။

ထိုစဉ်ကာလအတွင်း ရန်ကုန်မြို့ သရက်တောကျောင်းတိုက်ဘုန်းကြီးဦးရဝိန္ဒ မေးလျှောက်လာသော သက္ကာယဒိဋ္ဌိဆိုင်ရာပုစ္ဆာသုံးရပ်ကို နေကောင်းထိုင်သာရှိတော်မူသည့်နေ့တွင် တပည့်များကို အနီးသို့ခေါ်ယူ၍ နှုတ်တော်ကမိန့်မြွက်ကာဖြေကြားတော်မူပါသည်။ သို့ပါသော် ကျန်းမာရေးအခြေအနေမပြည့်စုံသည့်အတွက် အကျယ်တဝင့် စိတ်တော်ရှိတိုင်းမဖြေဆိုနိုင်လေရာ ထိုအဖြေလွှာကို လိုက်၍ရေးရသော ဦးဝဏ္ဏိတကိုယ်တော်က ဆရာတော်ဘုရားကြီးအမိန့်အတိုင်း ရေးသားတော်မူရင်း ထိုအဖြေလွှာအဆုံးတစ်နေရာ၌ 'ဆရာတော်မှာ မကျန်းမမာရှိသည်နှင့် စာပေကျမ်းဂန်ကြည့်ရှုမှု အခွင့်မရသေးရှိနေသောကြောင့် အကျယ်ဝိတ္ထာရမဖြေလိုက်ရ၊

---

*၁ လယ်တီဆရာတော်ကြီး၏ ပုစ္ဆာအဖြေပေါင်းချုပ်ကျမ်းကြီး၊ ပထမတွဲ။ (စာမျက်နှာ–၅၂၂)။

*၂ ဓမ္မဒေသနာတရားသတင်းစာ။ အတွဲ–၁၀၊ အမှတ်–၁၁၊၇။ ၁၉၁၈–ခုနှစ်၊ ဇူလိုင်လ။ (စာမျက်နှာ–၂၅)။

အကျဉ်းသခင်္ဂဟမျှသာဖြေလိုက်ရပေသည်’ဟူသောမှတ်ချက်ကိုပါ ရေးထည့်ထားလေသည်။ ထို အဖြေလွှာရေးပြီးသောနေ့မှာ ၁၂၈၀–ပြည့်နှစ်၊ ကဆုန်လပြည့်ကျော် ၁၀–ရက် (အေဒီ–၄၊ မေလ၊ ၁၉၁၈–ခုနှစ်)ဖြစ်သည်။*၁

**နိုင်ငံခြားသာသနာပြုအသင်းအစည်းအဝေး**

သက္ကရာဇ် ၁၂၈၀–ပြည့်နှစ်၊ နယုန်လအတွင်း စိတ္တသုခချောင်မှာပင် ဆရာတော်ဘုရား ကြီး၏ကျန်းမာရေးကို ကြပ်မပြုစုကြရာ နယုန်လပြည့်ကျော်သောအခါ ဆရာတော်ဘုရားကြီး၏ ကျန်းမာရေးအခြေအနေမှာ တိုးတက်ကောင်းမွန်လာသည့်အတွက်ကြောင့် နယုန်လဆုတ် ၃– ရက် (အေဒီ–၂၇၊ မေလ၊ ၁၉၁၈) နေ့တွင် စိတ္တသုခချောင်မှာပင် နိုင်ငံခြားဗုဒ္ဓဘာသာသာသနာပြု အသင်းအစည်းအဝေးကြီးကို ကျင်းပခဲ့ပါသည်။

ထိုအစည်းအဝေးသို့ ကြွရောက်တော်မူလာကြကုန်သော သံဃာတော်များမှာ– (၁) အသင်း ဦးစီးနာယက လယ်တီဆရာတော်ဘုရားကြီး၊ (၂) မစိုးရိမ်တိုက်အုပ်ဆရာတော် ဦးသောမ၊ (၃) မစိုးရိမ်တိုက်စာချဆရာတော် ဦးသူရိယ၊ (၄) အသင်းဒုတိယနာယက မစိုးရိမ်တိုက်စာချ ဆရာတော် ဦးဉာဏ၊ (၅) မင်းလှမြို့ ဦးဝိသုဒ္ဓ၊ (၆) မန္တလေးမြို့ ရတနာပုံလယ်တီစံကျောင်း တိုက်မှဦးရေဝတ၊ (၇) ရန်ကုန် ဓမ္မသဝနဗုဒ္ဓဘာသာသာသနာပြုအသင်း ဓမ္မကထိကဦးဓမ္မစာရီ တို့ ဖြစ်တော်မူကြပါသည်။

လူပုဂ္ဂိုလ်များမှာ– (၁) ဦးညွန့်၊ (၂) ဦးစံမင်း၊ (၃) ဦးသင်၊ (၄) ဦးကျော်ရန်၊ (၅) ဦးမင်း၊ (၆) ဦးမောင်ကြီး၊ (၇) ဦးကာ၊ (၈) ဦးဘိုးစော၊ (၉) ဦးဘ၊ (၁၀) ဦးဘိုးရိတ်၊ (၁၁) ဆရာသန့်၊ (၁၂) ဦးပေါ်ဦး၊ (၁၃) ကိုဦး၊ (၁၄) ဦးစံလှပေါ်၊ (၁၅) ဦးထွန်းနောင်၊ (၁၆) ဦးဘိုးအို၊ (၁၇) ဦးဘ သစ်၊ (၁၈) ဆရာသိန်း–စသည်ဖြင့် စုစုပေါင်း ၅၀–ခန့် တက်ရောက်ကြပါသည်။

ဤအစည်းအဝေးတွင် သဘာပတိအဖြစ် စစ်ကိုင်းမြို့မှ ပင်စင်အငြိမ်းစားဝန်ထောက်ကြီး ဦးစံမင်း A.T.M ကိုတင်မြှောက်ကြသည်။ ယခင်တစ်ကြိမ်ကျင်းပသောအစည်းအဝေးမှတ်တမ်းကို ဖတ်ကြား၍ အတည်ပြုကြသည်။ အဖွဲ့ဝင်အသစ်အဖြစ် ဖျာပုံမြို့မှ ရှေ့နေဦးသာခင်နှင့် ပညာ အလင်းမဂ္ဂဇင်းအယ်ဒီတာ ဆရာဦးမောင်ကြီး(လယ်တီပဏ္ဍိတ)တို့ကိုထည့်သွင်းသည်။ အသုံးပြု ခဲ့သောငွေစာရင်းများဖတ်ကြား၍ အတည်ပြုကြသည်။ ထိုငွေစာရင်းတွင် အင်္ဂလန်နိုင်ငံ လန်ဒန်ပါဠိ ကျမ်းစာအသင်းသို့ ပါဠိအဘိဓာန်နှင့်ပိဋကတ်တော်များဘာသာပြန်ဆိုရေးအတွက် ထောက်ပံ့ငွေ ၁၃၀၀/–ကျပ် ပေးပို့လှူဒါန်းကြောင်းပါရှိသည်။

ဤသို့ လန်ဒန်ပါဠိအဘိဓာန်အတွက် ထောက်ပံ့ငွေများပေးပို့သည်နှင့်စပ်၍ အချို့သော ပုဂ္ဂိုလ်တို့က မစိုးရိမ်တိုက်၌ပြုစုလျက်ရှိသော သဒ္ဒတ္ထရတနာဝလိပါဠိမဟာအဘိဓာန်ကြီးဆိုင်ရာ

---

*၁ လယ်တီဆရာတော်ကြီး၏ပုစ္ဆာအဖြေပေါင်းချုပ်ကျမ်းကြီး၊ ပထမတွဲ။ (စာမျက်နှာ–၄၄၈၊ ၄၅၅)။

ကျမ်းပြုပုဂ္ဂိုလ်တို့အားလည်း ဆုငွေများချီးမြှင့်ထိုက်ကြောင်း တီးတိုးပြောဆိုသောစကားသည် ဆရာတော်ဘုရားကြီးနားတော်သို့ပေါက်ကြားရောက်ရှိလေရာ၊ ဆရာတော်ဘုရားကြီးက ဤကိစ္စနှင့် စပ်လျဉ်း၍ ဦးကျော်ရန်အား 'မောင်ကျော်ရန်'ဟု ခေါ်တော်မူလေသည်။ ဦးကျော်ရန်က 'ဘုရား'ဟု လျှောက်ထားရာ၊ 'မင်းတို့အထဲမှာ ရွှေဒင်္ဂါးငတ်တဲ့အကောင်တွေရှိကြသလားကွဲ့'ဟု မေးတော်မူ၏။ ဦးကျော်ရန်မှာ ဆရာတော်ဘုရားကြီး၏စိတ်သဘောကိုသိသည့်အတိုင်း 'မရှိပါဘုရား'ဟု လျှောက်ထားလျှင် 'အေး–ငါအလှူခံထားတဲ့ငွေတွေဟာ မင်းတို့က ကြည့်ရှုပြီးသုံးရမှာ၊ ဒါတွေဟာ တို့ကိုယ်ကျိုးအတွက် သုံးရန်မဟုတ်ဘူးကွဲ့၊ သာသနာပြုရန်ဖြစ်တယ်'စသည်ဖြင့် သာသနာရေး လုပ်ငန်းအတွက် ငွေကြေးသည်အရေးပါသည်နှင့်အမျှ အသုံးမတတ်က အဖက်ဖက်ကအကျိုး ယုတ်တတ်ပုံတို့ကို ထိုအစည်းအဝေးနေ့၌ ဆရာတော်ဘုရားကြီး အကျယ်တဝင့်ရှင်းလင်းမိန့်ကြား ဆုံးမတော်မူပါသည်။*၁

ထို့နောက် အသင်းအမှုဆောင်ပုဂ္ဂိုလ်သစ်များရွေးချယ်ရာ ဦးကျော်ရန်ကိုဥက္ကဋ္ဌထား၍ အခြား ပုဂ္ဂိုလ်များထည့်သွင်းပြီး ရွေးချယ်ကြပါသည်။ အလုံးစုံပြီးသောအခါ အစည်းအဝေးဆုံးဖြတ်ချက် များကို ဆရာတော်ဘုရားကြီးအားဖတ်ကြားပြသရသည်။ ဆရာတော်ဘုရားကြီးက သဘောတူ မိန့်ဆိုတော်မူပြီးနောက် အစည်းအဝေးကိုရုပ်သိမ်းခဲ့ကြပါသည်။*၂

**စစ်ကိုင်း မဟာဂန္ဓာရုံဆရာတော်ကြီး*၃**

စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံချောင်၌သီတင်းသုံးနေတော်မူသော ဂန္ဓာရုံဆရာတော်ကြီး သည် အကျင့်သီလ၌စံပြဟုဆိုထိုက်သော ဘာဝနာနုယောဂီပုဂ္ဂိုလ်မြတ်ကြီးဖြစ်ပါသည်၊ အချိန်ပြည့် သမထဝိပဿနာကိုသာစူးစူးစိုက်စိုက်အားထုတ်နေတော်မူပါသည်။ အခြားကိစ္စဟူ၍ကား တစိုးတစိမျှရှိတော်မမူခဲ့ပေ။ မဟာဂန္ဓာရုံဆရာတော်ကြီးသည် လယ်တီဆရာတော်ဘုရားကြီး အား မိမိ၏ဥပဇ္ဈာယ်ငယ်ဆရာတော် မကွေးမြို့ ဂုံတောဆရာတော်ကြီးအရှင်ကေသရနှင့် အလွန် ရင်းနှီးသော ဒဠှမိတ္တကြီးဖြစ်တော်မူသည့်အတွက် ဆရာသမားရင်းကဲ့သို့ ကြည်လည်းကြည်ညို

*၁ ဤအချက်မှာ လယ်တီဦးဝဏ္ဏိတ(ဆရာဦးလှတင်)၏ မိန့်ကြားချက်ဖြစ်ပါသည်။

*၂ ဓမ္မဒေသနာတရားသတင်းစာ။ အတွဲ–၁၀၊ အမှတ်–၁၁၆။ ၁၉၁၈–ခုနှစ်၊ ဇွန်လ။ (စာမျက်နှာ–၂၉၊ ၃၀)။

*၃ မဟာဂန္ဓာရုံဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၂၀–ပြည့်နှစ် (အေဒီ ၁၈၅၈–ခုနှစ်)ဖွားဖြစ်၍ လယ်တီဆရာပော်ဘုရားကြီး အောက် သက်တော်(၁၂)နှစ် ငယ်တော်မူပါသည်။ ငယ်စဉ်ကပင် မကွေးမြို့ ဂုံတောဆရာတော်ထံ သာမဏေဝတ်ခဲ့ သည်။ အသက်ပြည့်သော် ရဟန်းခံခဲ့ပါသည်။ ဂုံတောဆရာတော်ကြီးပျံလွန်သော် မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးထံ ဆည်းကပ်၍ ဥပဇ္ဈာယ်ယူကာ သိက္ခာထပ်ခဲ့သည်။ ကွမ်းခြံကုန်းမြို့ မဟာဝုန်ဆရာတော်ထံ၌လည်း ပဋိပတ်နည်းခံခဲ့ သေးသည်။ ၁၂၅၇ (အေဒီ–၁၈၉၅)ခုနှစ်တွင် စစ်ကိုင်းတောင်ရိုးသို့ကြွ၍ ဦးစွာ ပထမဂန္ဓာရုံ၊ နောက် အရှေ့ဂန္ဓာရုံနှင့် မဟာသုခချောင်များသို့ အစဉ်အတိုင်းရွှေ့ပြောင်းသီတင်းသုံးနေတော်မူကာ ဘာဝနာကမ္မဋ္ဌာန်းအလုပ်ကို ကိုယ်တိုင်လည်း ကြိုးပမ်း၊ တပည့်တပန်းရှင်လူတို့အားလည်း နည်းပေးတော်မူပါသည်။ အရှင်ပဏ္ဍိတ၏ ရွှေကျင်နိကာယသာသနာဝင်။ ၁၉၆၃–ခုနှစ်။ (စာမျက်နှာ ၄၅၈–၄၆၄)။ အရှင်ကေလာသ၏ စစ်ကိုင်းသာသနာဝင်။ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ–၁၆၅)။

အမြဲလည်းဆည်းကပ်တော်မူခဲ့ပါသည်။*၁ ဂန္ဓာရုံဆရာတော်အား မည်သူမျှပြောဆိုလျှောက်ထား၍ မရသောအခါ လယ်တီဆရာတော်ဘုရားကြီးက ဆရာသမားနေရာကနေ၍ ဩဝါဒပေးမိန့်ဆိုတော်မူလျှင် ရှိသေစွာနာယူပါသည်။

တစ်ခါသော် ဂန္ဓာရုံဆရာတော်ကြီးသည် မိမိတရားအားထုတ်ရာဂူအတွင်း၌ 'ဤဂူအတွင်းမှ ရဟန္တာမဖြစ်သရွေ့မထွက်ပြီ'ဟုအဓိဋ္ဌာန်ယူလျက် တရားအားထုတ်နေရာ ကျန်းမာရေးအခြေအနေဆိုးဝါးလာသဖြင့် တပည့်များက ဂူအပြင်သို့ကြွတော်မူပါရန် လျှောက်ထားကြသည်။ မည်သို့မျှ လျှောက်ထား၍မရ။ ထိုအချိန် စစ်ကိုင်းတောင်ရိုး ဇေတဝန်ချောင်၌ လယ်တီဆရာတော်ဘုရားကြီးသီတင်းသုံးနေခိုက်ဖြစ်၍ အတွင်းသိတပည့်များက လယ်တီဆရာတော်ဘုရားကြီးထံ ဂန္ဓာရုံဆရာတော်၏အကြောင်းကို သွားရောက်လျှောက်ထားကြရာ လယ်တီဆရာတော်ဘုရားကြီးသည် မဟာဂန္ဓာရုံချောင်သို့ကြွတော်မူခဲ့ပြီး ဂန္ဓာရုံဆရာတော်အား ဂူအပြင်သို့ထွက်ရန်အမိန့်ရှိလေသည်။ ထိုအခါ ဂန္ဓာရုံဆရာတော်က 'အဓိဋ္ဌာန်ရှိပါသည်ဘုရား'ဟု လျှောက်ထားသောအခါ လယ်တီဆရာတော်ကြီးက တပည့်များကို 'အဓိဋ္ဌာန်က ဂန္ဓာရုံဘုန်းကြီးရဲ့အဓိဋ္ဌာန်ပဲကွယ့်၊ သူက ပါလို့တော့မဟုတ်ဘူး၊ တို့က အပြင်ထုတ်ဆေးကုရမှာဆိုတော့ ကဲ–မင်းတို့ဆရာကို မင်းတို့ ပင့်ကြကွာ'ဟုအမိန့်ရှိပြီး အပြင်သို့ချီပိုးပင့်ထုတ်စေခဲ့ပါသည်။*၂

ယခုလည်း မဟာဂန္ဓာရုံဆရာတော်ကြီးသည် လယ်တီဆရာတော်ဘုရားကြီး စစ်ကိုင်းတောင်ရိုး စိတ္တသုခချောင်၌ ကျန်းမာရေးမပြည့်စုံသဖြင့် ဆေးဝါးကုသခံယူနေကြောင်းကြားသိလျှင် ချက်ချင်းလာရောက်၍ ဦးခိုက်တော်မူပါသည်။ ပြီးလျှင် မိမိသိလိုသော ကမ္မဋ္ဌာန်းအလုပ်နှင့်စပ်၍ အောက်ပါအတိုင်း မေးလျှောက်တော်မူခဲ့ပါသည်။

> ဂန္ဓာရုံဆရာတော်က လျှောက်ထားသည်မှာ– 'ဘုရားတပည့်တော်သည် ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်းပေးရာ အားထုတ်သောယောဂီပုဂ္ဂိုလ်အပေါင်းတို့မှာ လေးရက်၊ ငါးရက်၊ ခုနစ်ရက်နှင့် ဘုရားနိမိတ်များကို ကောင်းမွန်စွာရရှိကြပါသည်ဘုရား။ ထို့နောက် ရုပ်နာမ်အဖြစ်အပျက်ကို အရှုခိုင်းသောအခါ ဝိပဿနာဉာဏ်(၁၀)ပါးကို ခုနစ်ရက်၊ ရှစ်ရက်၊ ကိုးရက်၊ ဆယ်ရက်နှင့် ပေါက်ရောက်ထင်မြင်သော ယောဂီပုဂ္ဂိုလ်တွေရှိပါသည်ဘုရား။ (ဝိသုဒ္ဓိမဂ်အလိုက) လွန်စွာခက်ခဲကြောင်းပြပါသည်။

---

*၁ လယ်တီဆရာတော်ဘုရားကြီးနှင့် မကွေးမြို့ ဂုံတောဆရာတော်ကြီးတို့သည် မန္တလေးမြို့ မြောက်ပြင်စံကျောင်းတိုက်မှာ စလင်းဆရာတော်ကြီးဦးပဏ္ဍိစ္စ၏ထံတော်၌ အတူပညာသင်ယူခဲ့ရသော စာသင်ဖက်မိတ်ဆွေဖြစ်သည်။ စလင်းဆရာတော်ကြီး မကွေးမြို့သို့ကြွရောက်လျှင် ဂုံတောကျောင်းအနီး လေးထပ်ကျောင်း၌ သီတင်းသုံးတော်မူလေ့ရှိပြီး၊ ထိုအချိန်၌ လယ်တီဆရာတော်ဘုရားကြီးရောက်ရှိတော်မူပါက လယ်တီဆရာတော်ဘုရားကြီးသည် မိမိ၏ယယ်ဆရာ စလင်းဆရာတော်ကြီးအား ဝတ်ပြုဦးခိုက်သကဲ့သို့ ယယ်မိတ်ဆွေ ဂုံတောဆရာတော်နှင့်လည်း ဖက်လဲတကင်း ရင်းနှီးစွာစကားပြောဆိုတော်မူလေ့ရှိသည်။ ဤအကြောင်းတို့ကို မကွေးမြို့ လေးထပ်ကျောင်း၌ ကိုရင်ဝတ်ဖြင့်နေဖူးသော ဆရာကြီးသျှင်သန်းမေ (ဦးဘသန်း)၏ ပြောပြချက်ဖြစ်ပါသည်။

*၂ မြမှာစရိယဦးဌေးလှိုင်၏ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၃၆၆)။

ယခုအားထုတ်သော ယောဂီပုဂ္ဂိုလ်တို့မှာ လွန်စွာလွယ်နေပါသည်ဘုရား'ဟု လျှောက်ထားလေသည်။

ထိုအခါ လယ်တီဆရာတော်ဘုရားကြီးက– 'ဆရာပေးသော ဗုဒ္ဓါနုဿတိက ဘယ်လိုပေးသနည်း'ဟု မေးလေသည်။

ဂန္ဓာရုံဆရာတော်က– 'တပည့်တော်ပေးသည်မှာ မဟာဗောဓိပင်ရင်း ရွှေပလ္လင်တော်ပေါ်၌ မြတ်စွာဘုရားကိုယ်တော်မြတ်ကြီးသည် တင်ပလ္လင်ခွေ၍ မာရ်ငါးပါးကို ထွားထွားညက်ညက် အောင်တော်မူပြီး သစ္စာလေးပါးတရားကိုရတော်မူသော မြတ်စွာဘုရားကိုယ်တော်ကြီးကို မိမိရှေ့မှာ စမ္မခဏ်ခင်း၍ ရေတော်, ပန်းတော်, မီးတော်များကို ကပ်လှူပူဇော်ပြီး မိမိရုပ်နာမ်နှစ်ပါးကိုအပ်နှင်း၍ နှစ်တောင့်ထွာလောက်ကနေ၍ ကောင်းမွန်ရှိသေလေးမြတ်စွာရှိခိုးပြီး 'အရဟံ–အရဟံ'ဟု နှလုံးသွင်းနေရမည်ဟု ခိုင်းပါသည်ဘုရား။ အားထုတ်သောယောဂီတို့မှာ သက်တော်ထင်ရှား နိမ္မိတရုပ်ပွားကဲ့သို့ ရောင်ခြည်တော်ခြောက်သွယ်နှင့်တကွ နိမိတ်များကို ကောင်းစွာထင်၍ ဖူးတွေ့ကြရပါသည်ဘုရား'ဟု လျှောက်ထားလေသည်။

ထိုအခါ လယ်တီဆရာတော်ဘုရားကြီးက– 'ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်းသည် နိမိတ်မထင်ကောင်း၊ ပီတိသာဖြစ်ကောင်းသည်'ဟု ဝိသုဒ္ဓိမဂ်၌လာရှိပေသည်။ ဗုဒ္ဓါနုဿတိ ဆိုသည်ကား ဘုရားရှင်၏ဂုဏ်တော်ကို စွဲလမ်းသမှုအာရုံပြု၍ဖြစ်သော အဖန်တလဲလဲအောက်မေ့ခြင်း 'သတိ'ကို ဗုဒ္ဓါနုဿတိဟုခေါ်သည်။ ဤဗုဒ္ဓါနုဿတိဟူသောအမည်သည် 'ဘုရားဂုဏ်လျှင်အာရုံရှိသောသတိ'၏အမည်ပေတည်း။ ထိုဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်းကို အားထုတ်သောသူတို့သည် ဗုဒ္ဓါနုဿတိအာရုံကိုသာ ကောင်းစွာစွဲလမ်းငြိကပ်သောစိတ်ရှိသည်ဖြစ်၍ 'ဣတိပိ သော ဘဂဝါ အရဟံ သမ္မာသမ္ဗုဒ္ဓေါ'အစရှိသော မြတ်စွာဘုရား၏ဂုဏ်တော်ကျေးဇူးတော်တို့ကို အဖန်တလဲလဲအောက်မေ့၍ ပွားများသောသူတို့အား ထိုအခိုက်၌ 'ရာဂ' ထကြွသောင်းကျန်းသော စိတ်မဖြစ်၊ 'ဒေါသ' ထကြွသောင်းကျန်းသောစိတ်မဖြစ်၊ 'မောဟ' ထကြွသောင်းကျန်းသောစိတ်မဖြစ်။ ထိုအခါ၌ ထိုပုဂ္ဂိုလ်၏စိတ်သည် ဘုရားကျေးဇူးတော်ကိုအာရုံပြု၍ ဖြောင့်မတ်တည်ကြည်သည်သာဖြစ်၏။ ဤသို့လျှင် ရာဂစသည် ထကြွသောင်းကျန်းခြင်းမရှိသောကြောင့် နီဝရဏတို့ခွာအပ်ပြီးသော ကမ္မဋ္ဌာန်းသို့ ရှေးရှုသည့်အဖြစ်ဖြင့် ဖြောင့်မတ်သောစိတ်ရှိသောပုဂ္ဂိုလ်အား ဘုရားရှင်၏ဂုဏ်ကျေးဇူးသို့ညွှတ်သော ဝိတက်,ဝိစာရတို့သည်ဖြစ်ကုန်၏။ ဗုဒ္ဓရှင်တော်ဘုရား၏ဂုဏ်တော်ကျေးဇူးတော်ကို အဖန်တလဲလဲကြံသော, တရစ်ဝဲဝဲကြံအောက်မေ့သောပုဂ္ဂိုလ်အား နှစ်သက်ခြင်းပီတိသည်ဖြစ်၏။ နှစ်သက်သောစိတ်ရှိသူအား ပီတိလျှင် နီးသောအကြောင်းရှိသော ပဿဒ္ဓိကြောင့် ပူပန်ခြင်းငြိမ်းသောပုဂ္ဂိုလ်အား ကိုယ်၌လည်းဖြစ်သော, စိတ်၌လည်းဖြစ်သော သုခသည်ထင်ရှားဖြစ်၏။ သုခရှိသူအား ဘုရား

ဂုဏ်လျှင်အာရုံရှိသည်ဖြစ်၍ စိတ်သည်တည်ကြည်၏။ ဤသို့အစဉ်အတိုင်း တစ်ခုသော'ခဏ'၌ ဈာန်အင်္ဂါတို့သည် ဖြစ်ကုန်၏။ ဘုရားရှင်ဂုဏ်တော်တို့၏ နက်နဲလှသောကြောင့်လည်းကောင်း၊ အထူးထူးအပြားပြား များသောဂုဏ်တော်တို့ကို အောက်မေ့ခြင်းဖြင့် စုတ်စုတ်နစ်နစ်ဖြစ်၍ လေးမြတ်ယုံကြည်သည်အဖြစ်ကြောင့်လည်းကောင်း၊ အပ္ပနာသို့မရောက်မူ၍ ဥပစာရမျှသာဖြစ်သောဈာန်သည် ဖြစ်၏။ ထို 'ဥပစာရ'ဈာန်သည် ဘုရားဂုဏ်ကို အဖန်တလဲလဲအောက်မေ့သည်၏အစွမ်းဖြင့်ဖြစ်သောကြောင့် ဗုဒ္ဓါနုဿတိဟူ၍သာလျှင် ရေတွက်ခြင်းသို့ရောက်၏။ ထို့ကြောင့် 'ဗုဒ္ဓါနုဿတိ'သည် ပီတိသာဖြစ်ကောင်းသည်၊ နိမိတ်မရှိကောင်းသည်ကို ထင်ရှားလှပေသည်။ သို့ရာတွင် ဆရာက 'ပရိကမ်'လုပ်၍ပေးသောကြောင့် ပေးသော 'ပရိကမ်'နှင့် ထင်သောနိမိတ်နှင့်တည့်ပေသည်။အတုမရှိသော အတိက္ကန္တာရုံဘုရားနိမိတ်ထင်ခြင်းသည် ကောင်းပေသည်။ ရသောနိမိတ်ကို ဖျက်မပစ်ကောင်း။ ဗုဒ္ဓါနုဿတိလို့ခေါ်လျှင် စာနှင့်မညီမညွတ်ဖြစ်ပေလိမ့်မည်။ အဆင်းရှိသော ကသိုဏ်းလေးပါးတွင်သွင်း၍ ဗုဒ္ဓကသိုဏ်းလို့ခေါ်မှရသောနိမိတ်နှင့်တည့်မည်–ဟုအမိန့်ရှိတော်မူလေသည်။

လယ်တီဆရာတော်ဘုရားကြီးက မဟာဂန္ဓာရုံဆရာတော်ကြီးအား ဆက်လက်၍ မေးသည်မှာ– 'ဆရာ၊ ဉာဏ်ဆယ်ပါးပေးပုံကို လျှောက်ထားစေလိုသည်'–ဟုဖြစ်သည်။

ဂန္ဓာရုံဆရာတော်က– 'တပည့်တော်ပေးသည်မှာ သမ္မသနဉာဏ်ရှုနည်းကို ဟောပြောပြပါသည်၊ ရှုကြည့်သောယောဂီတို့မှာလည်း ဟောပြသည့်အတိုင်း ထင်မြင်ကြပါသည်။ ထိုနောက် ဥဒယဗ္ဗယဉာဏ် ရုပ်နာမ်ဖြစ်ပျက်ပုံကို ဟောပြပါသည်၊ ရှုကြည့်သောယောဂီတို့မှာ ရုပ်နာမ်၏အဖြစ်အပျက်ကို ကောင်းစွာထင်မြင်ကြပါသည်။ ထိုနောက် အဖြစ်ကိုလွှတ်၍ အပျက်ကိုသာရှုကြည့်ရမည်ဟုဟောပါသည်၊ ရှုကြည့်သောယောဂီတို့မှာ အပျက်ကိုသာ ကောင်းစွာထင်မြင်ကြပါသည် ဘုရား'ဟု လျှောက်ထားလေသည်။

ထိုအခါ လယ်တီဆရာတော်ဘုရားကြီးက– 'သုတမယဉာဏ်၊ စိန္တာမယဉာဏ်၊ ဘာဝနာမယဉာဏ်– ဉာဏ်သုံးမျိုးရှိရာတွင် ဘာဝနာမယဉာဏ် သဘာဝဓမ္မ အဟုတ်အမှန်အစစ်ကိုသိရန်မှာ ဒုက္ခအချက်က ထိုင်၍သာကြည့်ရမည်။ ဒုက္ခအချက်မပိုင်သေးလျှင် သဘာဝဓမ္မဘာဝနာမယဉာဏ်အစစ်မဟုတ်သေးကြောင်းကို သိရမည်။ ဒုက္ခအချက်ပိုင်အောင် ရှေ့သို့တိုး၍ ဗိုလ်ငါးပါးတူမျှအောင်ထား၍ အားထုတ်ကြရမည်'ဟု တိုက်တွန်းတော်မူပါသည်။

လယ်တီဆရာတော်ဘုရားကြီးက ဆက်လက်၍– 'မန္တလေးမြို့၌ရှိသော မြင်းရထားက,သောမြင်းများကို အစာကျွေးသောအခါ မြက်ခြောက်ကိုစင်း၍ကျွေးကြသည်။ မြင်းကို မျက်မှန်စိမ်းကြီးကိုတပ်၍ ကျွေးလေသည်။ မြင်း၏စက္ခုဝိညာဏ်

စိတ်သည် မြက်စိမ်းတွေထင်မြင်၍စားကြသည်။ မြက်ဖြူအခြောက်တွေကို အဟုတ်တကယ်မြက်စိမ်းထင်အောင် စက္ခုဝိညာဏ်စိတ်ကို မျက်မှန်စိမ်းကြီးတပ်၍ လိမ်ကျွေးခြင်းမျှသာဖြစ်သည်။ ပြကတေ့ဇာတိပေါ်အောင် မျက်မှန်စိမ်းကြီးကိုချွတ်ကြည့်လိုက်၊ မြက်စိမ်းတွေကွယ်ပျောက်၍ ပြကတေ့ဇာတိ မြက်ဖြူတွေကိုသာ အဖြူအတိုင်း မြင်လိမ့်မည်။ ထို့အတူ တရားအားထုတ်သော ယောဂီပုဂ္ဂိုလ်တို့ ထင်မြင်နေသော ဉာဏ်ဆယ်ပါးသည် သဘာဝမေ့အစစ်အမှန်ဟုတ်,မဟုတ်ကို ကာမဝိတက် ပြင်းထန်စွာဖြစ်ပြီးသည်နောက် မိမိတို့ထင်မြင်နေသော ဝိပဿနာဉာဏ်ဆယ်ပါးကို ပြန်၍ အားထုတ်နိုင်းကြည့်ရမည်။ သမထ–သမာဓိနှင့် သုတမယဉာဏ်, စိန္တာမယဉာဏ် တွဲ၍ ထင်နေသောဉာဏ်ဖြစ်နေခဲ့လျှင် ရုပ်နာမ်၏အဖြစ်အပျက်ကို ဘာတစ်ခုမျှ ရှာတွေ့လို့ မရသည့်ပြင် မိမိခန္ဓာကိုယ်အသွင်သဏ္ဍာန်ကြီးကို မမြင်ရအောင် မှောင်ကြီး အတိ ကျနေတတ်သည်။ သို့အတွက် ဆရာ့တပည့်များကို ယခုစမ်းနည်းအတိုင်း စမ်းကြည့်ရမည်’–ဟူ၍လည်း မိန့်ဆိုတော်မူခဲ့ပါသည်။*၁

**မန္တလေးမြို့သို့**

လယ်တီဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၈၀–ပြည့်နှစ်၊ နယုန်လဆုတ် ၆–ရက် (အေဒီ–၃၀၊ မေလ၊ ၁၉၁၈–ခုနှစ်)တွင် စစ်ကိုင်း စိတ္တသုခချောင်မှထွက်ခွာတော်မူ၍ အမရပူရမြို့၌ ခေတ္တ ဝင်ရောက်၍သီတင်းသုံးတော်မူပါသည်။ ထိုစဉ် အမရပူရမြို့ရှိ ဘကြီးတော်မင်း ကောင်းမှုတော် မဟာဝိဇယရံသီဘွဲ့မည်ရှိသော ပုထိုးတော်ကြီးဘုရားသို့ မီးအပူဇော်ကြွတော်မူခဲ့ပါသည်။ ထို့နောက် လဆုတ် ၁၃–ရက် (အေဒီ–၆၊ ဇွန်လ၊ ၁၉၁၈–ခုနှစ်)တွင် မန္တလေးမြို့သို့ ဆက်လက်ကြွတော်မူပြီး မန္တလေးမြို့ ရတနာပုံလယ်တီစံကျောင်း၌ သီတင်းသုံးနေတော်မူပါသည်။

**ကြေးမျှင်သော, ကြက်မျှင်သော ငါတို့မသိ**

လယ်တီဆရာတော်ဘုရားကြီးသည် မန္တလေးမြို့ ရတနာသီရိစံကျောင်း၌ သီတင်းသုံးနေတော်မူစဉ် ကျန်းမာရေးအခြေအနေကြောင့် ယခင်အခါကကဲ့သို့ မြို့တော်လေးပြင်လေးရပ်တို့၌ တရားပွဲကြီးများကိုမကျင်းပနိုင်သော်လည်း ညစဉ် ရတနာသီရိလယ်တီစံကျောင်း၌ ညတရားပွဲကိုမူ ကျင်းပတော်မူလေ့ရှိပါသည်။ ထိုတရားပွဲသို့ ရှင်လူပရိသတ်များစွာမဟုတ်ဘဲ ဆရာတော်ဘုရားကြီး၏တပည့် ကျောင်းဒါယကာကြီးများ၊ ဆွမ်းဒကာ,ဒကာမများ၊ ကျောင်းအမ မင်းကြီးကတော်မမညွန့်၊ ဒေါ်လုံးစသူတို့နှင့်သိကျွမ်းသူများ စသည်ဖြင့် လူငါးဆယ်, တစ်ရာခန့်ကိုသာ ဟောတော်မူခြင်းဖြစ်ပါသည်။ မန္တလေးတောင်တော်ကိုပြုပြင်နေသော ရသေ့ကိုယ်တော်ကြီး

*၁ ဤသို့ လယ်တီဆရာတော်ဘုရားကြီးထံတော်၌ မဟာဂန္ဓာရုံဆရာတော်ကြီးက တရားအားထုတ်နည်းနှင့်စပ်၍ မေးလျှောက်အစစ်ခံယူပုံအကြောင်းတို့ကို ထိုစဉ်က လယ်တီဆရာတော်ဘုရားကြီးအနီး၌ရှိနေသော သိမ်တောင် ဆည်ကြီးဆရာတော် ဦးဇဝန မှတ်တမ်းတင်ထားသည့်အတိုင်း ဖော်ပြထားခြင်းဖြစ်ပါသည်။ သိမ်တောင်ဆည်ကြီးဆရာတော်၏ အရိယာဝိဇ္ဇာမဂ္ဂ အလင်းပြကျမ်း။ ရွှေပြည်တန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၃၆၇)။

မန္တလေးမြို့အနောက်ပြင် လယ်တီစံကျောင်းတည်ရှိခဲ့ရာလယ်တီဝင်း



ရသေ့ကိုယ်တော်ကြီးဦးခန္တီ



ကြေးမြှင်မိဖုရား

ဦးခန္တီလည်း ညစဉ်ထိုတရားပွဲသို့ကြွရောက်၍နာယူလေ့ရှိသည်။ ထို့ပြင် မင်းတုန်းမင်းကြီး၏ မိဖုရားကြီးတစ်ပါးဖြစ်သော ကြေးမှုံမိဖုရားကြီး*၁ လည်းအပါအဝင်ဖြစ်သည်။

တစ်ညသောတရားပွဲတွင် တရားပွဲစကာနီးအချိန်အထိ ကြေးမှုံမိဖုရားကြီးမှာ ရောက်မလာသေးသဖြင့် ရသေ့ကိုယ်တော်ကြီးဦးခန္တီက ဆရာတော်ဘုရားကြီးအား ဟိုဟိုသည်သည် လျှောက်ထားပြီး တရားပွဲမစ,နိုင်ရန် အချိန်ဆွဲနေခဲ့ပါသည်။ သို့ပါသော် ကြေးမှုံမိဖုရားကြီးမှာ တော်တော်နှင့်မလာနိုင်သဖြင့် ရသေ့ကိုယ်တော်ကြီးမှာလည်း လျှောက်ထားစရာစကားအထူး မရှိတော့သည့်အတွက် အသာဆိတ်နေလိုက်ရသည်။ ဆရာတော်ကြီးက တရားပွဲစအံ့ဟူ၍ ချောင်းဟန့်ကာပြင်တော်မူသောအခါ ရသေ့ကိုယ်တော်ကြီးက ဘာပဲဖြစ်ဖြစ် မထူးတော့ပြီ ဟူသောစိတ်ဖြင့် 'ကြေးမှုံမိဖုရားကြီး မရောက်သေးပါဘုရား'ဟု အရဲစွန့်၍လျှောက်ထားရာ၊ ဆရာတော်ဘုရားကြီးက 'အို၊ ကြေးမှုံသော ကြက်မှုံသော ငါတို့မသိဘူး'ဟု ခပ်တင်းတင်း မာမာ မိန့်ဆိုတော်မူပြီး တရားပွဲကိုစတင်တော်မူပါသည်။ ထိုနေ့တရားပွဲပြီးသောအခါ ဆရာတော်ဘုရားကြီးက အနီး၌ရှိနေသော ဦးဝဏ္ဏိတကိုယ်တော်အား–

'ဒီရသေ့ကြီးဟာကွာ၊ ငါက ဒီည တရားတစ်မျိုးဟောမလို့ ဆင်ထားတာကွ၊ ဒီရသေ့ကြီးလျှောက်နေတာနဲ့ တရားသားဟာ ရည်ရွယ်သလိုမဟုတ်ဘဲ ဖြစ်ကုန်တယ် မောင်ဝဏ္ဏိတရဲ့'ဟု ထိုညက တရားဟောတော်မူရသည်ကို အားမလိုအားမရ ဖြစ်တော်မူဟန် မိန့်ကြားတော်မူပါသည်။*၂

ဤဖြစ်ရပ်ကိုအကဲခတ်ပါက လယ်တီဆရာတော်ဘုရားကြီးသည် လောကီကိုငဲ့ကွက်ခြင်း မရှိဘဲ သမာဓိကိုသာအလေးပြုတော်မူလေ့ရှိပုံကိုသိနိုင်သည်။ ထို့ပြင် လွန်ခဲ့သော အနှစ်–၈၀ ကျော်အချိန် ဘကြီးတော်မင်းလက်ထက်အခါက ထင်ရှားတော်မူခဲ့သော အင်းဝမြို့ အုတ်ကျောင်း ဆရာတော်ကြီးဦးပုဓ်နှင့် အလားတူသလိုဖြစ်နေကြောင်းတွေ့ရသည်။ အကြောင်းမှာ ဦးပုဓ်အား ဘကြီးတော်မင်းနှင့် နန်းမတော်ကြီးမယ်နုတို့က အလွန်အလေးထားကိုးကွယ်တော်မူခဲ့ကြသည်။ တစ်ကြိမ်သောအခါ နန်းတွင်း၌ ပရိတ်ရွတ်ပွဲတစ်ခုတွင် ဆရာတော်ဦးပုဓ်လည်း ပင့်သံဃာတို့တွင် အပါအဝင်ဖြစ်သည်။ ရှင်ဘုရင်နှင့်တကွ မှူးကြီးမတ်ရာသေနာပတိတို့က ပရိသတ်စုံလင်၍ ကန်တော့ကြမည်ရှိသောအခါ အနောက်ပိုင်းဆိုင်ရာအပါးတော်မြဲတစ်ယောက်က နန်းမတော်ကြီး ထွက်တော်မမူသေးပါကြောင်း ဝင်ရောက်လျှောက်ထားသည်ကို ဆရာတော်ဦးပုဓ် ကြားတော်မူသော် 'ဟေ့–နန်းမတော်ကြီးပါမှအန္တရာယ်ကင်းမှာလား'ဟု မိန့်ကြားတော်မူလေရာ၊ ဘကြီးတော်

*၁ ကြေးမှုံမိဖုရားကြီးသည် သတိုးမင်းကြီးမဟာမင်းယှမင်းခေါင်ကျော် ရေနံချောင်းမြို့စားဝန်ကြီး ဦး(ရွှေ)စိုနှင့် မင်းကတော်ဒေါ်(ခင်)ချိုတို့၏သမီး၊ ငယ်မည်မှာ ဒေါ်ခင်ဖြစ်သည်။ ငယ်စဉ်က သုသီရိမဟာဘွဲ့ခံ မှန်နန်းအပျိုတော်ဖြစ်ခဲ့သည်။ မင်းတုန်းမင်းကြီးကောက်ယူ၍ မိဖုရားမြှောက်သောအခါမှ ကြေးမှုံမိဖုရားဟုထင်ရှားခဲ့သည်။ ကြေးမှုံမိဖုရား၌ သားတော်တစ်ပါးမြင်ပြီး ပျဉ်းမနားကိုယ်တော်ကြီးဟု နောင်အခါထင်ရှားသည်။ ကြေးမှုံမိဖုရားသည် အေဒီ ၁၉၂၃–ခုနှစ်တွင် ရန်ကုန်မြို့၌ကွယ်လွန်ခဲ့သည်။ မောင်သန်းဆွေ(ထားဝယ်)၏ ကုန်းဘောင်ရှင်းတမ်း။ ရာပြည့်စာအုပ်တိုက်၊ ရန်ကုန်မြို့။ ၂၀၀၁–ခုနှစ်။ (စာမျက်နှာ–၁၀၃)။

*၂ ဤအဖြစ်အပျက်မှာ လယ်တီဦးဝဏ္ဏိတ(ဆရာကြီးဦးလှတင်)၏ ပြောပြချက်ဖြစ်သည်။

ရှင်ဘုရင်ကြီးမှာ မိမိဆရာတော်၏စိတ်သဘောကို သိပြီးဖြစ်တော်မူသည့်အတိုင်း 'ကဲ–ကဲ ကန်တော့ကြ'ဟုဆို၍ ကန်တော့ကြရလေသည်။*၁

မြစ်သားသို့

လယ်တီဆရာတော်ဘုရားကြီး မန္တလေးမြို့ ရတနာပုံလယ်တီစံကျောင်း၌သီတင်းသုံးနေတော်မူစဉ် လယ်တီဆရာတော်ဘုရားကြီးအား အလွန်အလေးထားကိုးစား၍ ဆရာတော်ဘုရားကြီးကလည်း မိမိ၏သာသနာ့အမွေခံညီထွေးသဖွယ် လေးမြတ်မှုကိုခံယူရသော ဝမ်းတွင်းမြို့အင်းမကြီးဆရာတော် ဦးဇောတိက*၂ နှင့်တပည့်ဒါယကာရင်း မြစ်သားမြို့ စက်ပိုင်ရှင်ဦးစံဖေတို့၏ပင့်လျှောက်ချက်အရ ၁၂၈၀–ပြည့် ပထမဝါဆိုလဆုတ် ၁၀–ရက် (အေဒီ–၂၊ ဇူလိုင်လ၊ ၁၉၁၈–ခုနှစ်)နေ့တွင် မြစ်သားမြို့သို့ကြွတော်မူခဲ့ပါသည်။ မြစ်သားမြို့သို့ရောက်ရှိလျှင် မြို့အဝင်မြောက်ဘက် သိမ်တောင်တောရရှိ ဆရာတော်ဘုရားကြီးသီတင်းသုံးရန် အသင့်ဆောက်လုပ်ထားသော စံကျောင်းတော်တွင် သီတင်းသုံးတော်မူပါသည်။*၃

မြစ်သားမြို့သို့ ဆရာတော်ဘုရားကြီးရောက်ရှိတော်မူလျှင် ရဟန်းရှင်လူပရိသတ်အပေါင်းတို့အား အတ္တ,အနတ္တတရားတော်ကြီးကို ဟောကြားတော်မူပါသည်။ ထိုတရားပွဲမှာပင် တပည့်ဒါယကာ, ဒါယိကာမအပေါင်းတို့မှာ သမထဝိပဿနာအရာတို့၌ ကောင်းစွာဆည်းကပ်အားထုတ်ခွင့်ရကြသဖြင့် များစွာဝမ်းမြောက်ကြရာ ဆရာတော်ဘုရားကြီးအား ဤမြို့မှာပင် ဝါကပ်တော်မူပါရန် စုရုံး၍ တောင်းပန်လျှောက်ထားကြလေသည်။

တေပညာသမဝါကပ်တော်မူခြင်း

လယ်တီဆရာတော်ဘုရားကြီးသည် မြစ်သားမြို့ မြို့လူထုပရိသတ်အပေါင်းတို့၏လျှောက်ထားတောင်းပန်ချက်အရ သက္ကရာဇ် ၁၂၈၀–ပြည့်နှစ် ဝါတွင်းကာလ (အေဒီ ၁၉၁၈–ခုနှစ်၊ ဇူလိုင်လ)တွင် မြစ်သားမြို့မြောက်ဘက် သိမ်တောင်တောရတိုက် ဝါဆိုစံကျောင်းတော်ကြီးတွင် (၅၃)ကြိမ်မြောက် တေပညာသမဝါကို ကပ်ဆိုတော်မူခဲ့ပါသည်။ ဝါတွင်းအခါ လယ်တီဆရာတော်ဘုရားကြီးသည် ရဟန်းပရိသတ်, လူပရိသတ်တို့အား အဘိဓမ္မာဒေသနာတရားတော်ကြီးကို အကြိမ်ကြိမ်အထပ်ထပ် ဟောကြားဆုံးမတော်မူခဲ့ပါသည်။*၄

---

*၁ ဦးသုဒဿန၏ ညောင်ကန်သာသနာဝင်။ ၁၃၂၁–ခုနှစ်။ (စာမျက်နှာ–၁၈၁)။

*၂ အင်းမကြီးဆရာတော်သည် သိမ်တောင်တောရဂိုဏ်းကိုတည်ထောင်တော်မူခဲ့၍ ပရိယတ်–ပဋိပတ် စွယ်စုံရဆရာတော်ကြီးဖြစ်ပါသည်။ သက္ကရာဇ် ၁၂၃၇–ခုနှစ် (အေဒီ–၁၈၇၅)ခုနှစ်ဖွား၍ မန္တလေးမြို့၌စာပေကျွမ်းကန်သင်ယူပြီး သက္ကရာဇ်–၁၂၆၃ (အေဒီ–၁၉၀၁)ခုနှစ်တွင် တောရဆောက်တည်ခဲ့ပါသည်။ သက္ကရာဇ်–၁၂၆၉ (အေဒီ–၁၉၀၇)ခုနှစ်တွင် ဝမ်းတွင်းသိမ်တောင်တောရကို တည်ထောင်တော်မူပါသည်။ ဦးကုမာရာဘိဝံသ(ဇန်းမော်ဆရာတော်)၏ အင်းမကြီးသိမ်တောင်သာသနာဝင်။ နေလင်းပိဋကတ်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၉–ခုနှစ်။ (စာမျက်နှာ ၁–၃)။

*၃ ထိုစံကျောင်းမှာ ယိမ်းယိုင်နေသည့်အတွက် မြစ်သားမြို့ သိမ်တောင်တောရဆရာတော်ဦးသံဝရဇုဗ္ဗိလက်ထက် (၂၂၊ ၁၀၊ ၁၉၉၇)နေ့က ဖျက်ခဲ့ရပါသည်။ ဆရာတော်ကြီးဦးသံဝရဇုဗ္ဗိ (၂၇၊ ၁၀၊ ၁၉၉၇) နေ့ မိန့်ကြားချက်ဖြစ်ပါသည်။

*၄ ဓမ္မဒေသနာတရားသတင်းစာ။ အတွဲ–၁၀၊ အမှတ်–၁၁၇။ ၁၉၁၈–ခုနှစ်၊ ဇူလိုင်လ။ (စာမျက်နှာ–၂၅၊ ၂၆)။



မြစ်သားမြို့၊ သိမ်တောင်တောရကျောင်းတိုက်



မြစ်သားမြို့၊ သိမ်တောင်တောရအတွင်း၌ လယ်တီဆရာတော်ကြီးသီတင်းသုံးတော်မူခဲ့သောနေရာ



လယ်တီဆရာတော်ကြီး၏
တပည့်ရင်း
မြစ်သားမြို့၊ စက်ပိုင်
ဦးစံဖေ

## မဂ်ရသည်,ဖိုလ်ရသည် မပြောကြနှင့်

လယ်တီဆရာတော်ဘုရားကြီး သိမ်တောင်တိုက် စံကျောင်းတော်ကြီး၌ သီတင်းသုံးနေတော်မူသောအခါ မိတ္ထီလာမြို့ ရေလည်ကျောင်းဘုန်းကြီး ဦးအာဒိစ္စကိုယ်တော်နှင့် မြင်းခြံမြို့ စွန်းလွန်းစက်စာရေးကြီးဒါယကာကိုဘစံ၊ ထို့ပြင် ဦးကဝိ*၁ နှင့်အတူ တရားအားထုတ်သော ဦးဝိစာရတို့သည် လယ်တီဆရာတော်ဘုရားကြီး၏ခြေတော်ရင်းသို့ရောက်ရှိခဲ့ကြသည်။

လယ်တီဆရာတော်ဘုရားကြီးအား ဒါယကာကိုတစံက လျှောက်ထားသည်မှာ–

'တပည့်တော်သည် သေက္ခတောင်ဦးတိလောကရေးသော ပဏ္ဍိတဝေဒနီယစာအုပ်၌ ပါရှိသော ကသိဏ်းများကို အားထုတ်နည်းအတိုင်း အားထုတ်သောအခါ ဥဂ္ဂဟနိမိတ်၊ ပဋိဘာဂနိမိတ်များကိုကောင်းမွန်တည်ကြည်စွာရရှိပြီးလျှင် အပ္ပနာစျာန်သမာဓိ ဖြစ်ပါသည်ဘုရား' –ဟု လျှောက်ထားလေသည်။

ထို့နောက် 'ဝိပဿနာအားထုတ်သောအခါ ဆရာတော်ဘုရားကြီးရေးသား စီရင်တော်မူသော အနတ္တဒီပနီကျမ်း၌ပါရှိသော ဝေဒနာကမ္မဋ္ဌာန်းအားထုတ်သော နည်းအတိုင်း အားထုတ်ပါသည်ဘုရား။ ထိုအခါ မိမိခန္ဓာ၌ရှိသောရုပ်တရားတို့သည် နှမ်းများကို အိုးကင်းတွင်လှော်နေဘိသကဲ့သို့ ဖြစ်ဖြစ်နှင့်ဖြစ်ပျက်နေသည်ကို ဉာဏ်ဝ၌ ထင်ထင်ရှားရှားကြီးထင်မြင်နေပါသည်ဘုရား' –ဟု လျှောက်ထားပါသည်။

ထို့နောက် ဉာဏ်စဉ်အတိုင်း ရုပ်နာမ်၏ အနိစ္စသဘာဝဓမ္မများကို ကောင်းစွာ ထင်မြင်၍ အနုလုံ, ဂေါတြဘူ, မဂ်ဇော, ဖိုလ်ဇော ဖြစ်ပေါ်ပုံများကိုလည်း အလုံးစုံ ပြည့်စုံအောင် လျှောက်ထားလေသည်။ ထိုအခါ ကျေးဇူးရှင်လယ်တီဆရာတော် ဘုရားကြီးက သာခုသုံးကြိမ်ခေါ်တော်မူလေသည်။

ဆရာတော်ဘုရားကြီးကအမိန့်ရှိသည်မှာ–

'ငါ၏တပည့်များ နောက်ကို မဂ်ရသည်, ဖိုလ်ရသည်ဟု မည်သူ့ကိုမျှ မပြောကြနှင့်၊ ရောဝတီမြစ်ရိုးတစ်လျှောက် ပြည်, ရွှေတောင်, ကြံခင်း, မြန်အောင်, ဓနုဖြူ, ညောင်တုန်း, ကျိုက်လတ်, ပန်းတနော်မြို့များမှစ၍ သောတာပန်, သကဒါဂါမ်, အနာဂါမ်–အစရှိသောအရိယာတွေ များစွာပေါ်များကြောင်းကို ဆရာတော်အား များစွာ လျှောက်ထားကြသည်။ လျှောက်ထားသည့်အတိုင်း သောတာပန်, သကဒါဂါမ်, အနာဂါမ် အစစ်ဟုတ်ကြောင်း, မဟုတ်ကြောင်းကို ဆရာတော်ဘုရားကြီးဆုံးဖြတ်ပေးသနားတော်မူပါမည့်အကြောင်း လျှောက်လွှာတွေများစွာဖြစ်နေသည်။ ဖြေလို့ မပြီးနိုင်အောင် များနေသည်။

*၁ နောင်အခါ စွန်းလွန်းဆရာတော်ဘုရားကြီးဟုထင်ရှားတော်မူခဲ့ပါသည်။ စွန်းလွန်းဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျယ်တွင် သက္ကရာဇ် ၁၂၈၂–ခုနှစ် ရဟန်းဖြစ်ကြောင်းဖော်ပြထားရာ ထိုသက္ကရာဇ်–၁၂၈၂ (အေဒီ–၁၉၂၀) နောက်ပိုင်းမှ လယ်တီဆရာတော်ဘုရားကြီးနှင့်တွေ့ရဟန်လက္ခဏာရှိပေသည်။ သို့ပါသော် ထို ၁၂၈၂–ခုနှစ်နောက်ပိုင်း၌ လယ်တီဆရာတော်ဘုရားကြီးမှာ မြစ်သားသိမ်တောင်သို့ကြွတော်မူကြောင်း အမှင်အသား များစွာမတွေ့ရသဖြင့် လယ်တီဆရာတော်ကြီးနှင့် စွန်းလွန်းဆရာတော်ကြီးတို့တွေ့ဆုံခန်းကို ဤနေရာမှာပင်ထည့်သွင်းဖော်ပြရခြင်းဖြစ်ပါသည်။

သို့အတွက် မည်သူသောတာပန်, သကဒါဂါမိ, အနာဂါမိ ရဟန္တာဖြစ်ပြီဟု မှချမဆုံးဖြတ်ကြနှင့်။ အနုသယသဘောသတ္တိကလေးသည် လွန်စွာ နူးညံ့သည်ဖြစ်၍ မင်ဖြင့် မှချပယ်သည်, မပယ်သည်ကို လွန်စွာသိနိုင်ခဲသည်ဖြစ်သော ကြောင့် မဆုံးဖြတ်သင့်ကြပေ။ ယောဂီပုဂ္ဂိုလ်တစ်ဦးသည် ယခုဘဝ မဂ်, ဖိုလ်ကိုရထိုက်သော ပါရမီရှိသူလည်းဖြစ်စေ၊ သမထဝိပဿနာ နှစ်ဖြာသောကမ္မဋ္ဌာန်းကို သက်စွန့်ကြိုးပမ်း အားထုတ်သောပုဂ္ဂိုလ်လည်းဖြစ်စေ၊ ရုပ်နာမ်၏သဘာဝမှန်ကို ဉာဏ်ဝမှာ ကောင်းစွာ ထင်မြင်နေသည်လည်းဖြစ်စေ ထိုယောဂီပုဂ္ဂိုလ်သည် တစ်ခါတစ်ခါ ရုပ်နာမ်ချုပ်ငြိမ်း သကဲ့သို့ဖြစ်၍ အေးငြိမ်းမှုကိုတွေ့၍ခံစားနေတတ်သည်။

ထိုအခါ ယောဂီပုဂ္ဂိုလ်၏စိတ်မှာ ဝီတိက္ကမ, ပရိယုဋ္ဌာနကိလေသာတို့သည် ကြမ်းတမ်းသောအမူအရာမပေါ်လာနိုင်ဘဲ ကွယ်ငုပ်နေတတ်သည်။ ကိလေသာ ကွယ်ငုပ်လေလေ အေးငြိမ်းမှုတွေ့လေလေ တွေ့တတ်သည်။ ထိုအခါ ထို အေးငြိမ်း မှုကို ဆရာက တကယ်မဂ်ဖိုလ်ထင်၍ ဆုံးဖြတ်တတ်သည်။ ထိုနေရာမှာ ဆရာက စာနှင့်ကိုက်ကြည့်၍ တကယ်ညီညွတ်သည်ထင်လျှင် 'သာဓု–သာဓု–သာဓု'ဟုခေါ်၍ ငါ့ရှင် ရှေ့သို့တိုး၍အားထုတ်ရမည်။ ဖိုလ်ငါးပါးကိုညီမျှအောင်ထား၍ အားထုတ်ရန် အထူးတိုက်တွန်းပေးရမည်။

ထိုအချက်ကို ပမာဆောင်၍ပြပေအံ့။ ပင်လုံးကျွတ် အခက်အလက် အညွန့်တွေ ဝေဆာအောင်ပေါ်ထွက်နေသော မဟာဗောဓိပင်ကြီးကို မြင်သမျှရဟန်းရှင်လူအပေါင်း တို့သည် လွန်စွာကြည်နူးဝမ်းမြောက်စွာဖြစ်နေကြဆဲအခါ တစ်ဦးသောသူက ထို ဗောဓိပင်အညွန့်တွေကို ချိုးဖဲ့ပစ်လေသည်။ ထိုအခါ မဟာဗောဓိပင်ကြီးမှာ လွန်စွာ အားနည်းသွားလေသည်။ အညွန့်တွေဝေဆာအောင် ရုတ်တရက်ထွက်ပေါ်ခြင်းငှာ မစွမ်းနိုင်သကဲ့သို့ ထို့နည်းတူစွာ အဆုံးဖြတ်ခံရသောယောဂီပုဂ္ဂိုလ်တို့သည် မဟာ ဗောဓိပင်ကြီးနှင့်တူလှပေသည်။ အညွန့်တွေတဝေဝေထွက်ပေါ်နေခြင်းသည် မဂ်,ဖိုလ် ရထိုက်သောပါရမီ မဂ်ညွန့်,ဖိုလ်ညွန့်တွေနှင့် တူလှပေသည်။ မဂ်,ဖိုလ်မဟုတ်ဘဲနှင့် မဂ်,ဖိုလ်ထင်မှတ်၍ ဆုံးဖြတ်သောပုဂ္ဂိုလ်သည် မဟာဗောဓိပင်ကအညွန့်တွေကို ချိုးပစ်သကဲ့သို့ မဂ်ညွန့်, ဖိုလ်ညွန့်တွေကို ချိုးပစ်သောသူနှင့် တူလှပေသည်။

ဆရာက အထင်အမြင်မှား၍ မဂ်,ဖိုလ်ပဲဟု တထစ်ချဆုံးဖြတ်လိုက်သည်နှင့် တစ်ပြိုင်တည်း တပည့်ကလည်း ဆရာဆုံးဖြတ်သည့်အတိုင်း တထစ်ချယုံကြည်၍ 'ငါ မဟာသောတာပန်ဖြစ်ပြီ၊ အပါယ်တံခါးပိတ်ပြီ'ဟု ဟိန်းချ၍ တစ်စခန်းအမော နားနေတတ်သည်။ ဝိသာခါ,အနာထပိဏ်တို့ကဲ့သို့ သောတာပန်အဖြစ်နှင့် ကာမ, ရာဂ, အနုသယစာတ်ငုပ်တွေပေါ်ပေါက်သောင်းကျန်း၍ ခံစားနေတတ်သည်။ ယခု ဘဝတွင် တကယ် မဂ်,ဖိုလ်ရထိုက်သောပုဂ္ဂိုလ်ဖြစ်ပါလျက်နှင့် ဆရာက အဆုံးဖြတ်

စောသည့်အတွက် စိတ်ချနေသောကြောင့် ရှေ့သို့တရားအားထုတ်ရန် ရပ်စဲသွားတတ်သည်။ သို့အတွက် တပည့်မှာလဲအကျိုးယုတ်၊ ဆရာမှာလဲ မဂ်ညွန့်ဖိုလ်ညွန့်ကိုချိုးပစ်ရာရောက်သောကြောင့် အကျိုးယုတ်၊ သို့အတွက် နှစ်ဦးနှစ်ဝအကျိုးယုတ်ကြမည်ကိုစိုးတော်မူကြောင်း–သတိပေးဆုံးမတော်မူလေသည်။

လယ်တီဆရာတော်ဘုရားကြီးက ယောဂီတို့အား အရေးအကြီးဆုံးစကားရပ်အဖြစ် 'တကယ် အရိယာထင်မှတ်၍ ဆုံးဖြတ်ပြီးသည့်နောက် အနုသယဓာတ်ငုပ်ပေါ်, မပေါ်၊ ကံသုံးပါးသောင်းကျန်းမှုကို အနည်းဆုံး ခုနစ်နှစ်စောင့်ကြည့်ရဦးမည်' ဟူ၍ မိန့်ကြားတော်မူလေသည်။[*၁]

**သိမ်တောင်တောရတစ်ခွင်**

ဆရာတော်ဘုရားကြီး မြစ်သား သိမ်တောင်တောရ၌ သီတင်းသုံးနေတော်မူရာသို့ လယ်တီဦးဝဏ္ဏိတ၊ သိမ်တောင်ဆည်ကြီးဆရာတော်တို့လိုက်ပါ၍ပြုစုစောင့်ရှောက်ကြရသည်။ လူဒါယကာဘက်က ဦးစံဖေ၊ ဒေါ်သဲပွင့်တို့မိသားစုက ပြုစုစောင့်ရှောက်ကြသည်။

ဆရာတော်ဘုရားကြီးသီတင်းသုံးရာစံကျောင်းအနီး၌ နေ့ဘက်တွင် ကလေးငယ်များစု၍သံခိပ်ကျက်ရပြီး ညနေစောင်းအချိန်တိုင်လျှင် ဆရာတော်ဘုရားကြီးရှေ့တော်၌ 'မည်သည့်အပိုင်းကိုရ၍ ပြန်ဆိုကြပါမည်ဘုရား' ဟူ၍လျှောက်ထားပြီး ပြန်ကြရသည်။ ဒါယကာကြီးဦးစံဖေတို့လူစုမှာ ပဋ္ဌာန်းသမုပ္ပါဒ်လင်္ကာများကျက်ကြသည်။ ပြီးလျှင် ဆရာတော်ဘုရားကြီးထံပြန်ဆိုကြရသည်။ အချို့ပုဂ္ဂိုလ်များ အမဲသားရှောင်ကြဉ်ကြောင်း လာရောက်ပြီးဝန်ခံကြသည်။ ထိုအခါ ဝန်ခံစာအုပ်ကြီးတွင်လက်မှတ်ထိုးရပြီး အန္တရာယ်ကင်း သွပ်လက်ဖွဲ့တစ်ခုကိုချီးမြှင့်ပေးတော်မူပါသည်။

ရံခါ မြစ်သားမြို့ပေါ်ရှိရပ်ကွက်များက ဆရာတော်ဘုရားကြီးအား မိမိတို့ရပ်ကွက်များသို့ ဝေါဖြင့်ပင့်ဆောင်ကြသည်။ ရှေးမြန်မာဘုရင်များလက်ထက်ကအသုံးပြုခဲ့သော ထီးတော်များကိုလည်း အုပ်မိုးပင့်ဆောင်ကြသည်။ ရံခါ ရခိုင်ကြီး၊ ကူမဲစသောရွာများသို့ပင့်၍ လူငယ်များက သံခိပ်ရွတ်ဆိုကြသည်။ အမဲသားလှူကြောင်း ကတိပြုကြသည်။ ဆရာတော်ဘုရားကြီးကလည်း ရောက်ရာမြို့ရွာတွင် တရားခပ်တိုတိုဟောကြားတော်မူလေ့ရှိပါသည်။

ဤအခါ၌ ဆရာတော်ဘုရားကြီးသည် သက်လွတ်ပါဘုဉ်းပေးတော်မူပါသဖြင့် ဆွမ်းကပ်သောအခါ ဘူးသီးကိုလေးထောင့်အနံစာတုံးကဲ့သို့လှီး၍ ကြော်ချက်သောဟင်း၊ အရွက်သုပ်–စသည်ကပ်လှူကြရသည်။ ပဲအမျိုးမျိုးကိုလည်း ချက်၍ကပ်ကြသည်။ ညနေ ၃–နာရီခန့်တွင် ဆား၊ ပြည်ပန်းညို့ ရွက်ပြုတ်တစ်ခွက်၊ ထန်းလျက်ရည်တစ်ခရား စသည်ကပ်ရသည်။[*၂]

---

[*၁] သိမ်တောင်ဆည်ကြီးဆရာတော်၏ အရိယာဝိဇ္ဇာမဂ္ဂအလင်းပြကျမ်း။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ ၃၈၅–၃၉၀)။

[*၂] ဤအချက်အလက်များကို မြစ်သားဦးစံဖေ၏သမီး (ဆရာကြီးဒဂုန်ဦးလှဘေ၏ဇနီး) ဒေါ်ဒေါ်တုတ် (၄၊ ၁၊ ၁၉၈၄–ခုနှစ်) ပြောပြချက်များဖြစ်ပါသည်။



သိမ်တောင်ဆရာတော်ဦးဇောတိက



ဆည်ကြီးဆရာတော်ဦးဇဝန



လယ်တီဆရာတော်ကြီး ခေတ္တသီတင်းသုံးတော်မူရာ ဝမ်းတွင်းမြို့ သိမ်တောင်တောရ

နွားသားရှောင်ကြဉ်ရေးအဖွဲ့ အစည်းအဝေး

စင်စစ် တောင်သာ၊ မိတ္ထီလာ၊ မြစ်သား၊ ဝမ်းတွင်းစသည့်ဒေသများသည် နွားသားရှောင်ကြဉ်သူဦးရေ များပြားသည်နှင့်အမျှ နွားဘေးမဲ့ထား၍ ဆရာတော်ဘုရားကြီးထံ လာရောက်၍ ဇိဝိတဒါနလှူသူလည်းများပြားရကား အလှူခံရရှိလာသောနွားများကို ယိုဒေသ၌ ခြံများပြုလုပ်၍ စောင့်ရှောက်ထားရ၏။ ဤကိစ္စကို မိတ္ထီလာမှ နွားသားရှောင်ကြဉ်ရေးအဖွဲ့ ကိုယ်စားလှယ် ဦးဘိုးမင်းက ဆောင်ရွက်ရပါသည်။ ဦးဘိုးမင်းသည် ရွာစဉ်လည်၍ နွားသားရှောင်ကြဉ်ကြရန် ဆရာတော်ဘုရားကြီးသင်ကြားပြသပေးသည့်အတိုင်း စေတနာဖြစ်ဟောပြောပေးရသည်။ ရုံခါ နွားရုပ်၊ ကျွဲရုပ်များဖြင့်လည်းပြသပြီး ဟောပြောသည်။ ဦးဘိုးမင်း တရားအဟောကောင်းသောကြောင့် သတိသံဝေဂရကြပြီး ဦးဘိုးမင်းထံ နွားလှူသူလည်းအများအပြားရှိသည်။ ထိုအလှူခံရသော နွားများကို ဦးဘိုးမင်းကပင်စောင့်ရှောက်ထားရသည်။

ဆရာတော်ဘုရားကြီး မြစ်သားမြို့၌ဝါကပ်စဉ် နွားသားရှောင်ကြဉ်ရေးအဖွဲ့ အစည်းအဝေး တစ်ရပ်ကျင်းပရာ ထိုအစည်းအဝေးသို့ ဦးဘိုးမင်း မတက်ရောက်ဘဲရှိနေသည်။ အကြောင်းမှာ ထိုအစည်းအဝေး၌ မိမိအား ပစ်စာများဖြင့်တိုင်တန်းထားသည်ကို ဦးဘိုးမင်းက ကြိုတင်သိနေ၍ အစည်းအဝေးသို့မတက်ရောက်ခြင်းဖြစ်သည်။ အစည်းအဝေးစ,လျှင် ဦးဝဏ္ဏိတက အရပ်ရပ် ကိုယ်စားလှယ်များ၏ လစဉ် မိမိမြို့ရွာရှိ အစိုးရသားသတ်ရုံများက နွားသတ်သောကောင်ရေ၊ အလှူခံရရှိသောနွားကောင်ရေ၊ နွားသား,ကျွဲသားရှောင်ရန်ကတိပေးသူများစာရင်း–စသည်ရေးသား ပေးပို့အစီရင်ခံစာတို့ကို ဖတ်ကြားလျှောက်ထားရသည်။ ဆရာတော်ကြီးက စာတစ်စောင်ချင်း စီကိုနာယူပြီး မိန့်ကြားသင့်သည်၌ မိန့်ကြားတော်မူပါသည်။

ဦးဝဏ္ဏိတက စာတစ်စောင်ကိုကိုင်ပြီး မဖတ်ဘဲခေတ္တဆိုင်းနေရာ ဆရာတော်ဘုရားကြီးက 'ဟော့–ဖတ်စမ်း'ဟု အမိန့်ရှိလေသည်။ ထိုစာမှာ 'ဦးဘိုးမင်းသည် အလှူခံရသောနွားတို့ကို အလွဲသုံးစားပြုကြောင်း' တိုင်စာဖြစ်သည်။ ထိုတိုင်စာကိုဖတ်လျှင် ဦးဘိုးမင်းနစ်နာမည်စိုး၍ ဦးဝဏ္ဏိတက မဖတ်ဘဲရပ်နေခြင်းဖြစ်သည်။ ဆရာတော်ဘုရားကြီးက 'ဟော့–ဖတ်စမ်း'ဟု စေခိုင်းသောအခါ ဦးဝဏ္ဏိတမှာ မနေသာဘဲဖတ်ပြရသည်။ ဆရာတော်ဘုရားကြီးသည် တိုင်စာကိုနာယူ၍ ဆုံးလျှင် အိပ်ရာထက်မှနေ၍ ကြမ်းကိုလှမ်းပြီး လက်ဝါးဖြင့်ဝုန်းခနဲပုတ်တော်မူပြီး–

'တယ်–ဉာဏ်ဝေးတဲ့အကောင်တွေ၊ ဘိုးမင်းမကောင်း ရေးဖို့မလိုဘူးကွယ့်။ ငါ သိတန်သလောက် သိပြီးဖြစ်တယ်။ နွားနှစ်ကောင်ရ၍ တစ်ကောင်ကို သူစားလဲ ဘာမျှအကျိုးမယုတ်ဘူး။ ငါကလဲ သူ့ကို လခပေးထားတာမဟုတ်ဘူး။ သူ လုပ်ဖော် ကိုင်ဖော်ရနေ၍ ငါ့မှာ နွားတွေအလှူခံရနေတာ။ ကဲ–တိုင်တဲ့အကောင်ကို မင်းလုပ်နိုင် မလားမေးရင် ဘိုးမင်းလို သူတို့လုပ်နိုင်မှာမဟုတ်၊ ငါလဲ တစ်ကောင်မှရမှာမဟုတ်ဘူး၊ အလုပ်ဖြစ်တာကိုကြည့်ရမယ်ကွယ့်'

ဟူ၍ အစချီကာ ဦးဘိုးမင်းအပေါ်အထင်မလွဲစေရန်နှင့် ဆရာတော်ဘုရားကြီးက မိမိ စုံစမ်းထားပြီးဖြစ်ကြောင်းတို့ကို ရှင်းလင်းမိန့်ကြားတော်မူပါသည်။ ထို့ပြင် ဦးဘိုးမင်းအား နွားသား,

ကျွဲသားရှောင်ကြဉ်ရေးလုပ်ဆောင်နိုင်မှုအတွက် သာသနာ့အကျိုးဆောင် ရွှေတံဆိပ်တစ်ခုကိုပင် ချီးမြှင့်တော်မူခဲ့ပါသည်။*၁

ပခုက္ကူ သားရှင်ပြုအလှူ

သက္ကရာဇ် ၁၂၈၀-ပြည့် နတ်တော်လ (အေဒီ ၁၉၁၈-ခုနှစ်၊ ဒီဇင်ဘာလ)တွင် လယ်တီဆရာတော်ဘုရားကြီးသည် တပည့်ရင်းဦးကုသလ၏ပင့်ဖိတ်ချက်အရ ရွှေမြို့ ရွှေဥဒေါင်းတောရ၌ သီတင်းသုံးနေတော်မူပါသည်။ ဆရာတော်ဘုရားကြီး၏ကျန်းမာရေးအခြေအနေမှာ အကောင်းချည်းမဟုတ်ပါ။ ထိုအချိန်၌ ပခုက္ကူမြို့က နယ်ပိုင်ဝန်ထောက်ဦးစံရာက မိမိ၏သားရှင်ပြုအလှူပွဲသို့ ဆရာတော်ဘုရားကြီးအား ပင့်ဖိတ်ခဲ့ပါသည်။ ထိုသားရှင်ပြုအလှူပွဲသို့ ဆရာတော်ဘုရားကြီးက မိမိကိုယ်တော်စား ဦးဝဏ္ဏိတကိုစေလွှတ်ပြီး၊ ထိုအလှူပွဲသို့ ဆရာတော်ဘုရားကြီးမကြွရောက်လာနိုင်ပုံအကြောင်းနှင့်စပ်၍ အလှူရှင်ဝန်ထောက်ဦးစံရာသို့ပေးပို့သောစာမှာ အောက်ပါအတိုင်းဖြစ်လေသည်။

၁၂၈၀-ပြည့်နှစ်၊ နတ်တော်လဆန်း(၈)ရက်နေ့*၂

ရွှေမြို့ ရွှေဥဒေါင်းတောရ

လယ်တီဆရာတော်

အမိန့်တော်ရှိလိုက်သည် ပခုက္ကူမြို့ နယ်ပိုင်ဝန်ထောက် မောင်စံရာ။ ။ အကြောင်းမှာ- သားရှင်ပြုကိစ္စနှင့် မောင်စံရာကပင့်လျှောက်ချက်မှာ ဆရာတော်မှာ မကျန်းမမာရှိနေခိုက်ဖြစ်၍ ဆရာတော်ကိုယ်တိုင် မကြွလာနိုင်ရှိကြောင်း။ မန္တလေးမြို့ ဓမ္မကထိကဆရာနှင့် ဆရာတော်၏ကိုယ်စားလှယ်ဖြစ်သူ ဦးပဥ္စင်းရှင်ဝဏ္ဏိတကို ဆရာတော်၏ကိုယ်စားပြုလုပ်၍ ပခုက္ကူသို့ကြွလာစေကြောင်း။ မောင်စံရာအလှူကိစ္စပြီးစီးလျှင် ၎င်းကိုယ်စားလှယ်ဦးပဥ္စင်းကို မန္တလေးသွားသင်္ဘောတွင် မောင်စံရာက တင်ပို့လိုက်စေလိုကြောင်း။

အမိန့်အရ-ဦးကုသလ

ရွှေမြို့။

ဆရာတော်ဘုရားကြီးသည် ပခုက္ကူ သားရှင်ပြုအလှူပွဲတွင် ဦးဝဏ္ဏိတအား သာသနဒါယဇ္ဇ သာသနာ့အမွေခံတရားကို ဟောကြားရန် ဟောနည်းပြောနည်း ဟောကွက်ပြောကွက်တို့နှင့်တကွ ကျနစွာသင်ကြားပေးတော်မူခဲ့ပါသည်။*၃

*၁ ဤအဖြစ်အပျက်တို့မှာ လယ်တီဦးဝဏ္ဏိတ(ဦးလုတင်)၏ပြောပြချက်ဖြစ်သည်။

*၂ အေဒီ-၁၀၊ ဒီဇင်ဘာလ၊ ၁၉၁၈-ခုနှစ်ဖြစ်သည်။

*၃ ဦးဝဏ္ဏိတအား လယ်တီဆရာတော်ဘုရားကြီးသင်ကြားပေးခဲ့သော သာသနဒါယဇ္ဇတရားတော်ကြီးကို လယ်တီဟောကိန်းတရားစာ၊ ပထမတွဲ။ (စာမျက်နှာ ၆၂-၈၆)တွင်ကြည့်ပါ။

လယ်တီဆရာတော်ဘုရားကြီးသည် နယ်ပိုင်ဝန်ထောက်ဦးစံရာ၏ သားရှင်ပြုအလှူပွဲပြီးသည့်နောက် ကျန်းမာရေးအခြေအနေကောင်းမွန်တော်မူလာသည့်အတွက် ပခုက္ကူသို့ နောက်ပါသံဃာတော် ၁၂-ပါးဖြင့် ကြွရောက်တော်မူကာ (၁၂)ရက်ကြာ သီတင်းသုံးနေတော်မူခဲ့ပါသည်။ ပခုက္ကူတွင် ရဟန်းရှင်လူပရိသတ်တို့အား အဘိဓမ္မာတရားတော်ကြီးကို ဟောကြားတော်မူပါသည်။ လူငယ်,လူလတ်တို့အားလည်း ပရမတ္ထသံခိပ်လင်္ကာများကျက်မှတ်စေ၍ သံခိပ်အသင်းဖွဲ့စည်းပေးတော်မူပါသည်။ ထိုအချိန်က ပခုက္ကူ၌ လယ်တီဆရာတော်ဘုရားကြီး အဘိဓမ္မာသာသနာပြုပုံကို ပခုက္ကူသာသနာဝင်၌ ဤသို့ဖော်ပြထားပါသည်။

ထိုအချိန်မှစ၍ သံခိပ်အသင်းများဖွဲ့၍ အဘိဓမ္မာကိုလေ့လာကြပါသည်။ အမျိုးသမီးအချို့ သီလရှင်ဝတ်ကြသည်။ သီလရှင်များနေထိုင်ရန် ပခုက္ကူဈေးသူဈေးသားများစုပေါင်း၍ ဘုံကုသိုလ်သီလရှင်တိုက်ကို စ၍ဆောက်ကြသည်။ လယ်တီဆရာတော်ကြီးသင်ပြသည့် သံခိပ်ကိုစွဲ၍ သီလရှင်ကျောင်းတိုက်သည် 'သံခိပ်ကျောင်းတိုက်' တွင်သည်။ နောင်တဖြည်းဖြည်း တိုးတက်ကြီးပွားများပြားလာရာ သီလရှင်နေရာရပ်ကွက်တစ်ခုလုံး 'သံခိပ်ရပ်ကွက်' ဟုအမည်ရလေသည်။ လယ်တီဆရာတော်ဘုရားကြီးသည် ဦးဒီပ၊ ဦးကေသရ-ဟူသော တပည့်နှစ်ပါးကိုလည်း ထားတော်မူခဲ့သည်။ လယ်တီဆရာတော်ထံတွင် အစဆုံးဝတ်သောသီလရှင်များမှာ ဒေါ်စစ်မေ, ဒေါ်မကြီးတို့ဖြစ်ကြသည်။ လယ်တီဆရာတော်ကြီး၏လုံ့လကြောင့် စာတတ်ပေတတ်သီလရှင်မြောက်များစွာ ပေါ်ထွန်းခဲ့သည်-[*၁] ဟူ၍ဖြစ်ပါသည်။

### အနတ္တဒီပနီကျမ်းသစ်

လယ်တီဆရာတော်ဘုရားကြီး စီရင်ရေးသားသော ဒီပနီကျမ်းများစွာတွင် အနတ္တဒီပနီသည် အလွန်ထင်ရှားသောဒီပနီစာတစ်စောင်ဖြစ်ပါသည်။ သို့ရာတွင် ဆရာတော်ဘုရားကြီး၏ ဒီပနီကျမ်းစာရင်း၌ အနတ္တဒီပနီနှစ်ကျမ်းရှိနေကြောင်းတွေ့ရသည်။ ပထမအနတ္တဒီပနီမှာ သက္ကရာဇ်-၁၂၆၃ (အေဒီ-၁၉၀၁)ခုနှစ် အလုံမြို့တစ်ဖက်ကမ်း ရွှေတောင်ဦးတောင် ဂူဝစကြံ ကျောင်း၌ သီတင်းသုံးနေတော်မူစဉ်အချိန်ကပြုစုတော်မူခဲ့သော အနတ္တဒီပနီ (တစ်နည်း) အနတ္တဒီပနီဟောင်းဖြစ်သည်။[*၂] ဒုတိယအနတ္တဒီပနီမှာ ယခု သက္ကရာဇ် ၁၂၈၀-ပြည့် (အေဒီ-၁၉၁၈) ခုနှစ် ရွှေမြို့ ရွှေဥဒေါင်းတောရ၌ တပည့်ဦးကုသလ၏အောက်ပါတောင်းပန်လျှောက်ထားစာအရ ရေးသားတော်မူခြင်းဖြစ်ပါသည်။

ဘုန်းတော်ကြီးဦးကုသလ၏လျှောက်ထားစာမှာ-

တပည့်တော် ရွှေမြို့ ဥဒေါင်းတောရဘုန်းကြီးဦးကုသလ ရိုသေစွာလျှောက်ထားပါသည် အရှင်သူမြတ်ဘုရား။

---

*၁ အရှင်ကေလာသ၏ ပခုက္ကူသာသနာဝင်။ ၁၉၆၇-ခုနှစ်။ (စာမျက်နှာ-၁၁၃)။

*၂ လယ်တီဆရာတော်ကြီး၏ အနတ္တဒီပနီ။ ၁၉၅၀-ပြည့်နှစ်။ (စာမျက်နှာ-၁၀၇)။

သမ္မုတိသစ္စာ, ပရမတ္ထသစ္စာ ထိုသစ္စာနှစ်ပါးတို့ကို ပိုင်းခြားဝေဖန်၍ မှန်ရာ တည့်တည့် သိမြင်လိုပါသည်တစ်ရပ်။ သဿတဒိဋ္ဌိ, ဥစ္ဆေဒဒိဋ္ဌိတရားများကိုလည်း ခြားနားသေချာ၍သိလိုပါသည်တစ်ကြောင်း။ ဗုဒ္ဓဘာသာသာသနာဝင်လူရှင်အပေါင်း တို့သည် သိအပ်သိထိုက်လှပေသော အနတ္တအချက်တို့ကိုလည်း ကွက်ကွက်ကွင်း ကွင်း ထင်လင်းသေချာ ဝိပဿနာဉာဏဒဿနအဖွင့်ကို ချီးမြှင့်ရေးသားပေးသနား တော်မူပါမည့်အကြောင်း ဦးခေါင်းရိုကျိုး ရှိခိုးလျှောက်ထား အသနားတော်မြတ် ခံပါသည်ဘုရား။

ဦးကုသလ (ပုံ)
ရွှေဥဒေါင်းတောရဘုန်းကြီး
ရွှေမြို့။[*၁]

တပည့်ဖြစ်သူ ရွှေဥဒေါင်းဘုန်းတော်ကြီး၏ မေးလျှောက်ချက်ကို ဆရာတော်ဘုရားကြီး ဖြေကြားတော်မူရာဝယ် ဆရာတော်ဘုရားကြီးက–

'ယခုအခါ ဗုဒ္ဓဘာသာ၌ လွန်စွာအရေးကြီးသော အနတ္တအချက်ကြီးတို့ကို တပည့်ရှင်ကုသလ လျှောက်ထားတောင်းပန်ချက်အရ မုံရွာမြို့ လယ်တီတောရ ဆရာငါသည် ဗုဒ္ဓဘာသာဝင်ရှင်လူအပေါင်းမှစ၍ ယောဂါဝစရပုဂ္ဂိုလ် တောတောင် နို၍ ကြည်ညိုလေးမြတ် ဝိပဿနာလုပ်ရပ် အထပ်ထပ်ကြိုးစားကြသဖြင့် ဉာဏ် ဘွားဝရဖိန် တက်ထွန်းထိန်၍ အရှိန်ကြီးမား အမျိုးသားတို့အား ထောက်ထား မြော်ရှု ဟောပြောမှုအရာဝယ် ပဒေသာဉာဏ်ကဲ့သို့ ဝေဖန်ပိုင်းခြား ဟောကြား ဆုံးမ သာသနာတော်ကိုပြုစုကြရန် ရည်သန်စိတ်ထားဖြင့် တရားသဘောပေါ်လွင်၍ ဉာဏ်အမြင်ဖောက်ထွင်း သန့်ရှင်းစေသောအား မေးလျှောက်သောတရားတို့ကို ရေးသားချီးမြှောက်ပေအံ့သတည်း'–ဟူသောစကားဖြင့် အစချီထားတော်မူခဲ့ပါသည်။

ဆရာတော်ဘုရားကြီးသည် ဤအဖြေလွှာ၌ ရှေးဦးစွာ သမုတိသစ္စာနှင့် ပရမတ္ထသစ္စာ နှစ်ပါးတို့ကိုခွဲခြားပြဆိုထားပါသည်။[*၂] ထို့နောက် သဿတဒိဋ္ဌိနှင့် ဥစ္ဆေဒဒိဋ္ဌိနှစ်ပါးတို့ကို ခွဲခြား၍ ပြဆိုပြန်ပါသည်။[*၃] ထိုပြီးနောက် ကံ, စိတ်, ဥတု, အာဟာရဟူသောအကြောင်းတရားလေးပါးကို ရှင်းလင်းပြဆိုပါသည်။[*၄] ဆက်လက်၍ ပထဝီဓာတ်, အာပေါဓာတ်, တေဇောဓာတ်, ဝါယော ဓာတ်, အာကာသဓာတ်ဟူသော ရုပ်ဓာတ်ငါးပါး၊[*၅] ဝိညာဏ်,ဝေဒနာ,သညာ,စေတနာဟူသော

---

*၁ လယ်တီဆရာတော်ကြီး၏ လယ်တီပဏ္ဍာအဖြေပေါင်းချုပ်ကျမ်းကြီး။ ပထမတွဲ။ (စာမျက်နှာ–၂၇၄)။

*၂ ယင်း။ (စာမျက်နှာ ၂၇၅–၂၈၆)။

*၃ ယင်း။ (စာမျက်နှာ ၂၈၆–၂၉၂)။

*၄ ယင်း။ (စာမျက်နှာ ၂၉၂–၂၉၇)။

*၅ ယင်း။ (စာမျက်နှာ ၂၉၇–၂၉၉)။

နာမ်ဓာတ်လေးပါး၊[*၁] ထိုမှ ဓာတိ,ဇရာ,မရဏ–တရားသုံးပါး[*၂] တို့ကိုရှင်းပြပြီး၊ ခန္ဓာငါးပါး၌ လက္ခဏာရေးသုံးပါးတင်၍ ရှုပွားပုံကို ညွှန်ကြားပြသထားပါသည်။[*၃] နိဗ္ဗာန်တရားကို ပထမနိဗ္ဗာန်, ဒုတိယနိဗ္ဗာန်, တတိယနိဗ္ဗာန်–ဟူ၍ နိဗ္ဗာန်ကိုအဆင့်ဆင့်ထား၍ရှင်းလင်းပြပြီး နိဂုံးအုပ်တော်မူခဲ့ပါသည်။ ဤအဖြေလွှာ၏အဆုံး၌ ဆရာတော်ဘုရားကြီးက 'အရှင်ကုသလ လျှောက်ထားချက်ကို ဖြေဆိုခြင်းကို အရင်းပြုသဖြင့်လည်းကောင်း၊ ယခုအခါ အလွန်အရေးကြီးလှစွာသော အနတ္တအချက်ကြီးကိုလည်းကောင်း၊ အထူးပြုဆိုရာဖြစ်သော 'အနတ္တဒီပနီကျမ်းသစ်'သည် မြန်မာသက္ကရာဇ် ၁၂၈၀–ပြည့်၊ ပြာသိုလဆန်း ၈–ရက်၊ ဗုဒ္ဓဟူးနေ့တွင်[*၄] အောင်မြင်ပြီးစီးပေသတည်း'–ဟုဖော်ပြတော်မူခဲ့သည့်အတွက် ဤအဖြေလွှာကို နောင်အခါပုံနှိပ်ကြသောအခါဝယ် 'အနတ္တဒီပနီကျမ်းသစ်'[*၅] ဟူ၍ အမည်ပေးပုံနှိပ်ခဲ့ကြပါသည်။[*၆]

ရုပ်တုရုပ်ပွားအနေကဇာတင်ခြင်းဆိုင်ရာ ပုစ္ဆာငါးချက်

လယ်တီဆရာတော်ဘုရားကြီး၏တပည့်ရင်း မြစ်သားမြို့ အမိန့်တော်ရရှေ့နေ ဒါယကာမောင်စံဘေက ရုပ်ပွားဆင်းတုတော်များနှင့်စပ်၍ အမေးပုစ္ဆာငါးရပ်ကို အောက်ပါအတိုင်း မေးလျှောက်ခဲ့ပါသည်။

တပည့်တော် မြစ်သားမြို့ အမိန့်တော်ရရှေ့နေ ဒါယကာမောင်စံဘေ ရှိသေစွာ လျှောက်ထားပါသည်ဘုရား။

တပည့်တော်တို့အရပ်တွင် ငုက်တွင်းဂိုဏ်းသားများသည် အောက်ပါမေးခွန်းများကို မေးမြန်းလျက်ရှိပါသည်ဘုရား။

၁။ သစ်သားရုပ်တုဆင်းတုကိုးကွယ်ရာတွင် အနေကဇာတင်ခြင်းနှင့် မတင်ခြင်းသည် ဘာခြားပါသလဲ။

၂။ အနေကဇာမတင်သောဆင်းတုကို ကိုးကွယ်ရှိခိုး၍ ကုသိုလ် ရ,မရ။

၃။ လူသားသတ္တဝါနှင့်အသက်မရှိသောသစ်သားသည် မည်သည်ကို ကိုးကွယ်ရှိခိုးထိုက်ပါသလဲ။

၄။ သို့ဖြစ်လျှင် လူသားကိုယ်တိုင် အနေကဇာတင်၍ ရှိခိုးပူဇော်က သာ၍ မမြတ်ဘဲရှိပါမည်လား။

*၁ ယင်း။ (စာမျက်နှာ ၂၉၉–၃၀၂)။
*၂ ယင်း။ (စာမျက်နှာ ၃၀၂–၃၀၉)။
*၃ ယင်း။ (စာမျက်နှာ ၃၁၀–၃၂၀)။
*၄ အေဒီ–၈၊ ဇန်နဝါရီလ၊ ၁၉၁၉–ခုနှစ် ဖြစ်သည်။
*၅ လယ်တီဆရာတော်ကြီး၏ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်ကျမ်းကြီး။ ပထမတွဲ။ (စာမျက်နှာ–၃၃၀)။
*၆ လယ်တီဆရာတော်ကြီး၏ အနတ္တဒီပနီကျမ်းသစ်။ ကဝိမျက်မှန်စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၁–ခုနှစ်၊ တပို့တွဲလ။ ဤကျမ်းစာ၏နိဒါန်းတွင် 'ပျဉ်းမနားမြို့ ကျောင်းဒကာဦးလန်း၊ ကျောင်းအမ ဒေါ်မမလေးတို့က ရှေ့ပြေးဂါရဝသက္ကစ္စတရားလျှောက်ထားခွင့်ပန်ပြီး' ကဝိမျက်မှန်ပုံနှိပ်တိုက်၌ရိုက်နှိပ်ကြောင်းဖော်ပြထားသည်။

၅။ ထိုလူ ဘုရားအဖြစ်အနေကဇာမတင်ဘဲ ဘုရားဟူ၍ဝန်ခံကာမျှ ဘုရားမှတ်၍ရှိခိုးခြင်းသည် မှန်သောဘုရားကို ရှိခိုးရာရောက်ပါမည်လား။

၎င်းပုစ္ဆာများကို ဖြေကြားတော်မူပါမည်အကြောင်း ရိုသေစွာ လျှောက်ထားပါသည်ဘုရား။

မောင်စံဘေ (ပုံ)

အမိန့်တော်ရရှေ့နေ

မြစ်သားမြို့။

တပည့်ဖြစ်သူမောင်စံဘေ၏ အထက်ပါဆင်းတုရုပ်ပွားတို့နှင့် အနေကဇာတင်မှုဆိုင်ရာပုစ္ဆာတို့ကို လယ်တီဆရာတော်ဘုရားကြီးက အောက်ပါအတိုင်းရှင်းလင်းဖြေကြားတော်မူပါသည်။

ရုပ်ပွားဆင်းတုကိုးကွယ်မှုနှင့်စပ်လျဉ်း၍ မြစ်သားမြို့ အမိန့်တော်ရရှေ့နေဒါယကာမောင်စံဘေ မေးခွန်း၌ လိုရင်းအချက်ကို ရှေးဦးစွာပြဆိုပေအံ့။

ငါတို့ဗုဒ္ဓဘာသာမြန်မာလူမျိုးတို့မှာ အယူမဖောက်ပြန်ချေက ဘုရား မမှားနိုင်၊ တရားမမှားနိုင်၊ သံဃာမမှားနိုင်။ အဘယ့်ကြောင့် မမှားနိုင်သနည်းဆိုသော် ဘုရားစစ်, ဘုရားမှန်ကို မိရိုးဖလာအားဖြင့် အထင်အရှားသိရှိ၍နေကြ၏။ တရားစစ် တရားမှန်ကိုလည်း အထင်အရှားသိရှိ၍နေကြ၏။ သံဃာစစ်, သံဃာမှန်ကိုလည်း အထင်အရှားသိရှိ၍နေကြ၏။

ဘုရားစစ်, ဘုရားမှန်ဆိုသည်ကား ကပိလဝတ်ပြည်၌ မယ်တော်မာယာနှင့် သုဒ္ဓေါဒနမင်းကြီး၏သား သိဒ္ဓတ်မင်းသည် တောထွက်တော်မူပြီးလျှင် ဗောဓိပင်နှင့်ရွှေပလ္လင်၌ မာရ်ငါးပါးကိုအောင်တော်မူ၍ 'အရှင်ဂေါတမဘုရား'ဟု လောကသုံးပါး၌ ထင်ရှားပွင့်တော်မူ၏။ ဤအရှင်ဂေါတမဘုရားသည်သာလျှင် ဘုရားစစ်ဘုရားမှန်ဖြစ်၏။ နမော တဿ–ဆို၍ရှိခိုးခြင်းသည်လည်း ဤအရှင်ဂေါတမကိုသာရှိခိုးခြင်းဖြစ်၏။ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ–ဆို၍ရှိခိုးခြင်းသည်လည်း ဤအရှင်ဂေါတမကိုသာ ရှိခိုးခြင်းဖြစ်၏။ အရဟံ–အစရှိသော ဂုဏ်တော်ကိုးပါးသည်လည်း ဤအရှင်ဂေါတမ၌ရှိသော ဂုဏ်တော်ကိုးပါးဖြစ်၏ဟု ဘုရားစစ်,ဘုရားမှန်ကို သိရင်းဖြစ်ကြ၏။

တရားစစ် တရားမှန်ဆိုသည်ကား–မဂ်လေးပါး, ဖိုလ်လေးပါး နိဗ္ဗာန်တရား၊ ပိဋကတ်သုံးပုံဟုဆိုအပ်သောပရိယတ္တိတရားများသည် တရားစစ်တရားမှန်ဖြစ်၏ဟု အထင်အရှားသိရှိ၍နေကြ၏။ ဓမ္မံ သရဏံ ဂစ္ဆာမိ–ဆို၍ရှိခိုးခြင်းသည်လည်း ဤ(၁၀)ပါးသောတရားတော်မြတ်ကိုသာ ရှိခိုးခြင်းဖြစ်၏။ သွာက္ခာတတာ–အစရှိသော ဂုဏ်တော်ခြောက်ပါးသည်လည်း ဤ(၁၀)ပါးသောတရားတော်၌ရှိသော ဂုဏ်တော်များဖြစ်၏ဟု တရားစစ်တရားမှန်ကို သိရင်းဖြစ်ကြ၏။

သံဃာစစ် သံဃာမှန်ဆိုသည်ကား– ထိုဘုရားစစ် ဘုရားမှန်၏ တပည့်သား တော်ဖြစ်ကြသော မဂ်ပုဂ္ဂိုလ်, ဖိုလ်ပုဂ္ဂိုလ်, ကလျာဏပုထုဇန်အပေါင်းသည် သံဃာ စစ် သံဃာမှန်ဖြစ်၏ဟု အထင်အရှားသိရှိ၍နေကြ၏။ သံဃံ သရဏံ ဂစ္ဆာမိ– ဆို၍ရှိခိုးခြင်းသည်လည်း ဤသံဃာစစ် သံဃာမှန်ကိုသာ ရှိခိုးခြင်းဖြစ်၏။ သုပ္ပဋိ ပန္နတာ–အစရှိသော ဂုဏ်တော်ကိုးပါးသည် ဤသံဃာစစ် သံဃာမှန်၌သာရှိသော ဂုဏ်တော်များဖြစ်၏ဟု သိရင်းဖြစ်ကြ၏။

ထိုကြောင့် ရုပ်ပွားဆင်းတုစေတီပုထိုးများကိုရှိခိုးကြရာ၌ မိမိတို့သိရှိရင်းဖြစ်သော ဘုရားစစ်ဘုရားမှန်၊ တရားစစ်တရားမှန်၊ သံဃာစစ်သံဃာမှန်တို့ကို စိတ်၌ဦးတည် ထား၍ရှိခိုးကြသောအရာဖြစ်လေသောကြောင့် ငါတို့ဗုဒ္ဓဘာသာလူမျိုးများမှာ အယူ မဖောက်ပြန်ချေက ဘုရားမမှားနိုင်,တရားမမှားနိုင်,သံဃာမမှားနိုင်ဟုဆိုလေသတည်း။

ဤအရာ၌ ဆိုရန်ရှိ၏။ အဘယ်သို့ဆိုရန်ရှိသနည်းဟူမူကား ထိုကဲ့သို့ ဘုရား စစ် ဘုရားမှန်, တရားစစ် တရားမှန်, သံဃာစစ် သံဃာမှန်ကို အထင်အရှား သိရှိ၍နေခဲ့သော် သိရှိသည့်အတိုင်း ဘုရားစစ်ဘုရားမှန်ကို အာရုံပြု၍ရှိခိုးကြလျှင် ပြီးစီးတော့သည်မဟုတ်လော။ အဘယ့်ကြောင့် ရုပ်ပွားဆင်းတု စေတီပုထိုးတို့ကို ပြုလုပ်၍ ရှိခိုးကိုးကွယ်ကြရကုန်သနည်းဟု မေးရန်ရှိ၏။

အဖြေကား လောက၌ ဂုဏ်သတင်းကြီးမြတ်လှသောပုဂ္ဂိုလ်၏ ဂုဏ်သတင်း များကို ကြားသိရသည်ရှိသော် ထိုပုဂ္ဂိုလ်ကို တွေ့လိုမြင်လိုသောစိတ်သည် အားကြီးစွာ ဖြစ်ပေါ်မြဲဓမ္မတာပေတည်း။ အနီးအဝေး၌ဆို ပုဂ္ဂိုလ်ထင်ရှားရှိခဲ့သော် အလွန်ဝေးကွာ သောအရပ်၌ပင်သော်လည်း သွားရောက်၍ ဖူးမြော်ကြကုန်၏။ ထိုပုဂ္ဂိုလ်မရှိခဲ့သော် ထိုပုဂ္ဂိုလ်၏ရုပ်ပုံသဏ္ဌာန်များကိုဝယ်ယူ၍ ဖူးမြော်ကြကုန်၏။

ငါတို့ ရှင်ဂေါတမမြတ်စွာဘုရားသည်မူကား လောက၌ ဂုဏ်သတင်းကြီးမြတ် သောသူတို့တွင် အတုမရှိ ဂုဏ်သတင်းကြီးမြတ်တော်မူပေ၏။ ထိုကြောင့် ယခု အခါ ဗုဒ္ဓဘာသာလူမျိုးတို့မှာ မြတ်စွာဘုရားသခင်ကိုယ်တော်မြတ်ကြီးကို တွေ့မြင် ဖူးမြော်လိုသောစိတ် အလွန်အားကြီးကြ၏။ ပရိနိဗ္ဗာန်စံလွန်တော်မူပြီးသည်မှ လူဖြစ်နောက်ကျ၍ မတွေ့မမြင်ကြရသည့်အတွက် အလွန်ဝမ်းနည်းဖွယ်ကြီးဖြစ်ကြ ၏။ အချို့ဝမ်းနည်းလှ၍ ငိုကြရ၏။ ဘုရားကိုမတွေ့ရသော်လည်း ဘုရား၏ရုပ်သွင် သဏ္ဌာန်တော်များကို ဘယ်ပုံနေသည်ဟု မိမိတို့မျက်စိဖြင့် ဒိဋ္ဌမြင်လိုကြသောစိတ် သည် အလွန်အားကြီးကြ၏။

အလွန်တင့်တယ်စွာရေးသား၍ထားသော ရုပ်ပုံတော်တုများကိုလည်းကောင်း၊ လုပ်၍ထားသော ရုပ်ပွားတော်များကိုလည်းကောင်း ဒိဋ္ဌတွေ့မြင်ကြရသည်ရှိသော် အလွန်အားရနှစ်သက်ခြင်းဖြစ်ကြ၏။ ရုပ်ပုံတော်ရုပ်ပွားတော်များကို အခါခါမြင်ရ သည်ရှိသော် ဘုရားစစ်ဘုရားမှန်၌ ကြည်ညိုရင်းဖြစ်သောကုသိုလ်စိတ်တို့သည်

အသစ်အသစ်ပွင့်လင်းကြကုန်၏။ ထိုကြောင့် ဗုဒ္ဓဘာသာလူမျိုးတို့၌ ရုပ်ပွားဆင်းတု စေတီပုထိုး ပြုလုပ်ကိုးကွယ်ကြခြင်းသည် အလွန်ကောင်းမြတ်သော အလေ့ကောင်း အလာကောင်း နည်းကောင်းနာကောင်းကြီးဖြစ်ပေသတည်း။

ထိုရုပ်ပွားဆင်းတုစေတီပုထိုးတို့၌ ဆွမ်း၊ သင်ပုတ်၊ ရေချမ်း၊ ပန်းပေါက်ပေါက် ထီးတံခွန်များကို လှူဒါန်းပူဇော်ကြရာ၌လည်း မိမိတို့သိရှိရင်းဖြစ်သော ဘုရားစစ် ဘုရားမှန်ကို စိတ်၌ဦးတည်ထား၍ လှူဒါန်းပူဇော်ကြသောအရာဖြစ်လေသောကြောင့် ထိုဒါနပူဇာစိတ်စေတနာတို့သည် ဘုရားစစ်ဘုရားမှန်၌ဆိုက်၍ တည်လေကုန်၏။ ဘုရားစစ်ဘုရားမှန်ကို လှူဒါန်းပူဇော်ခြင်းမြောက်လေကုန်၏။ ထိုကြောင့် ဝိမာန ဝတ္ထုပါဠိတော် (ဝိမာန၊ ၆၆။) ၌–

တိဋ္ဌန္တေ နိဗ္ဗုတေ စာပိ၊ သမေ စိတ္တေ သမံ ဖလံ။
စေတောပဏိဓိဟေတုဟိ။ သတ္တာ ဂစ္ဆန္တိ သုဂ္ဂတိံ။*၁

ဟူ၍ဟောတော်မူ၏။

အနက်ကား– တိဋ္ဌန္တေ–သက်တော်ထင်ရှားတည်ရှိသောအခါ၌သော်လည်း ကောင်း၊ နိဗ္ဗုတေစာပိ–ပရိနိဗ္ဗာန်စံလွန်တော်မူပြီးသောအခါ၌သော်လည်းကောင်း၊ စိတ္တေ–ကြည်ညိုသောစိတ်သည်၊ သမေ–တူမျှသည်ရှိသော်၊ ဖလံ–အကျိုးသည်၊ သမံ–တူမျှ၏။ ဟိသစ္စံ–မှန်၏။ စေတော ပဏိဓိဟေတု–စိတ်ထားကောင်းခြင်း ကြောင့်၊ သတ္တာ–သတ္တဝါတို့သည်၊ သုဂ္ဂတိံ–ကောင်းသောအသွားရှိသော နတ်ရွာ နိဗ္ဗာန်သို့၊ ဂစ္ဆန္တိ–ရောက်ကြကုန်၏။

အဓိပ္ပာယ်ကား– သက်တော်ထင်ရှားရှိစဉ်အခါ၌ မြတ်စွာဘုရားအထံတော် သို့သွား၍ ရှိခိုးဝပ်တွား ပူဇော်ခြင်းကိုပြုသော်လည်း စိတ်ထားမကောင်းလျှင် အကျိုး မကြီး၊ စိတ်ထားကောင်းမှ အကျိုးကြီးသည်။ ပရိနိဗ္ဗာန်စံပြီးသည်မှနောက်၌ ရုပ်ပွား ဆင်းတု စေတီပုထိုးရှိရာသို့သွား၍ ရှိခိုးဝပ်တွား ပူဇော်လှူဒါန်းခြင်းကိုပြုရာ၌လည်း စိတ်ထားမကောင်းလျှင် အကျိုးမကြီး။ စိတ်ထားကောင်းမှ အကျိုးကြီးသည်။

အဘယ့်ကြောင့်ဆိုသော် အကျိုးပေးမှုမည်သည် စိတ်စေတနာ၏ကိစ္စသာဖြစ်၏။ အလှူဝတ္ထု၊ အလှူခံပုဂ္ဂိုလ်တို့၏ကိစ္စမဟုတ်။ စိတ်စေတနာသည်သာလျှင် နတ်ရွာနိဗ္ဗာန် သို့ဆောင်နိုင်၏။ အလှူဝတ္ထု၊အလှူခံပုဂ္ဂိုလ်တို့သည် နတ်ရွာနိဗ္ဗာန်သို့ မဆောင်နိုင်။ သို့သော် အလှူဝတ္ထု၊အလှူခံပုဂ္ဂိုလ်များသည် အပိုသက်သက်ဖြစ်တော့မည်လောဟု မေးရန်ရှိ၏။

အဖြေကား အပိုသက်သက်မဖြစ်။ အလှူဝတ္ထု၊ အလှူခံပုဂ္ဂိုလ်ကောင်းလျှင် ကောင်းလိုက်၊ စိတ်စေတနာကိုချီးမြှောက်နိုင်၏။ စိတ်စေတနာကောင်းလျှင် ကောင်းလိုက်၊ အကျိုးကြီးမြတ်နိုင်၏။ ဥပမာကား– စပါးမျိုးစေ့တို့ကိုစိုက်ပျိုးရာ၌

*၁ ဝိမာန၊ ဋ္ဌ။ ၁၈၆။ ဓမ္မ၊ ဋ္ဌ၊ ၂။ ၁၆၄။ ဇာ၊ ဋ္ဌ၊ ၃။ ၃၈၇။

လယ်ယာမြေကောင်းနှင့်မိုးကောင်းများသည် မျိုးစေ့ကိုချီးမြှောက်နိုင်သကဲ့သို့တည်း။ အလှူခံပုဂ္ဂိုလ်သည် လယ်ယာမြေကောင်းနှင့်တူ၏။ အလှူဝတ္ထုသည် မိုးကောင်း ရေကောင်းနှင့်တူ၏။ စိတ်စေတနာသည် မျိုးစေ့နှင့်တူ၏။

ရုပ်ပွားဆင်းတုတို့ကို ပူဇော်လှူဒါန်းကြရာ၌ ရုပ်ပွားဆင်းတုများသည် အလှူခံ ပုဂ္ဂိုလ်မဟုတ်၊ ဘုရားစစ်ဘုရားမှန်ကြီးသည်သာလျှင် အလှူခံပုဂ္ဂိုလ်ဖြစ်၏။ ထိုသို့ ဖြစ်မူ အလှူခံပုဂ္ဂိုလ်သည် ယခုမရှိပါပြီတကားဟု ဆိုရန်ရှိ၏။ လှူဒါန်းသူ၏စိတ်အာရုံ ထဲမှာရှိလျှင် ရှိတော့သည်သာဟုဖြေ။ တရားတော်ကို လှူဒါန်းပူဇော်ရာ၌လည်း ထို့အတူပင်တည်း။*[၁]–စသည်ဖြင့် ဖြေဆိုတော်မူပါသည်။

ထို့နောက်၌ ဆရာတော်ဘုရားကြီးက စေတီလေးပါး၊ ထုပါရဟလေးပါးတို့ကို ရှင်းလင်း ရေးသားပြီး ဒါယကာဦးစံဘေ၏အမေးလွှာကို ဆက်လက်၍ဖြေဆိုတော်မူသည်မှာ အောက်ပါ အတိုင်းဖြစ်သည်။ မောင်စံဘေ မေးခွန်းငါးချက်တွင်–

၁။ သစ်သားရုပ်တုဆင်းတုကိုးကွယ်ရာတွင် အနေကဇာတင်ခြင်းနှင့် မတင် ခြင်းသည် မည်သို့ခြားနားပါသနည်းဟူသောပုစ္ဆာ၌ အဖြေကား–

မြတ်စွာဘုရားရှင်သည် ရှေးဦးစွာ အရဟတ္တမဂ်ဉာဏ်, သဗ္ဗညုတ ဉာဏ်ကိုရတော်မူ၍ ဘုရားအဖြစ်သို့ရောက်တော်မူသောအခါ လွန်စွာ ဝမ်းမြောက်တော်မူသဖြင့် အနေကဇာဂါထာများကို ကျူးရင့်တော်မူ၏။ ရုပ်ပွားဆင်းတုပြုလုပ်မှုမှာ ‘ရုပ်ပုံ, ရုပ်သွင်, ရုပ်သဏ္ဍာန်’ ပြည့်စုံလျှင် ရုပ်ပွားတော်အစစ်ဖြစ်၏။ သို့သော် ‘ရုပ်တု, ဆင်းတု, ရုပ်တုဆင်းတု’ ဆိုသည်နှင့်အညီ ဘုရားအစစ်၌ဖြစ်ခဲ့သော အရေးအခွင့်အစုကို အတု လိုက်၍ ပြုနိုင်သမျှ ကောင်းမြတ်သည်သာဖြစ်ကြောင်း၊ ရုပ်ပွားဆင်းတု များကို အနေကဇာတင်မှုကိုပြုကြလေ၏။ ပြုသည့်အတွက်လည်း ကုသိုလ် အပိုအမို အထူးဖြစ်ရပြန်၏။

၂။ အနေကဇာမတင်သောဆင်းတုကို ကိုးကွယ်ရှိခိုးရာ၌ ကုသိုလ်ရ, မရ– ဟူသောပုစ္ဆာ၌ ဖြေဖွယ်အထူးမရှိ။ ပထမပုစ္ဆာအဖြေနှင့်ပင်ပြေပြီးဖြစ်၏။

၃။ လူသားသတ္တဝါနှင့် အသက်မရှိသောသစ်သားသည် မည်သည်ကိုကိုးကွယ် ထိုက်ပါသနည်း။ မည်သည်က သာ၍မြတ်ပါသနည်း။

၄။ သို့ဖြစ်လျှင် လူသားကိုယ်တိုင်အနေကဇာတင်၍ ရှိခိုးပူဇော်က သာ၍ မမြတ်ဘဲရှိမည်လော။

၅။ ထိုလူသားဘုရားအဖြစ် အနေကဇာမတင်ဘဲ ဘုရားဟူ၍ ဝန်ခံကာမျှ ဘုရားမှတ်၍ရှိခိုးခြင်းသည် မှန်သောဘုရားရှိခိုးရာရောက်ပါမည်လော–

---

*[၁] လယ်တီဆရာတော်ကြီး၏ နိယာမဒီပနီနှင့် ရုပ်ပွားဆင်းတုပုစ္ဆာအဖြေကျမ်း။ (စာမျက်နှာ ၁–၉)။

ဟူသော အမေးပုစ္ဆာ(၃)ချက်သည် အရေးမပါအရာမရောက် ကတောက်ကတက် ပုစ္ဆာများဖြစ်၍ ဖြေဖွယ်ကိစ္စမရှိပြီ၊ အရေးမပါအရာမရောက်ဆိုသည်ကား၊ အသက်မရှိသောသစ်သားကို အစွဲပြုရသောအရာမျိုးမဟုတ်။ အသွင်သဏ္ဌာန်များသာ လိုရင်းဖြစ်၏။ ထိုသို့ဖြစ်ပါလျက် အသက်မရှိသောသစ်သားကိုအစွဲပြု၍ မေးခွန်းထုတ်ခြင်းသည် အရေးမပါအရာမရောက်ဖြစ်လေ၏။

ထို့အတူ ကျောက်ဆင်းတု, ကြေး ဆင်းတု, ရွှေဆင်းတု, ငွေဆင်းတုများ၌လည်း ကျောက်,ကြေး,ရွှေ,ငွေများသည် လိုရင်းမဟုတ်၊ အသွင်သဏ္ဌာန်သာလိုရင်းဖြစ်၏။ အသွင်သဏ္ဌာန်သာလိုရင်းဖြစ်ကြောင်းကိုလည်း ဤ၀တ္ထုများကိုထောက်၍ ထင်ရှားစေရာ၏။

ဓမ္မာသောကမင်းကြီးသည် ကာလနဂါးမင်းကြီးကိုခေါ်ဆောင်၍ မြတ်စွာဘုရား၏ အသွင်တော်ကိုဖန်ဆင်း၍ ပြပါဟုဆို၏။ ကာလနဂါးသည် မြတ်စွာဘုရား၏ အသွင်တော်ကို လက္ခဏာကြီးငယ်ရောင်ခြည်တော်ခြောက်သွယ်နှင့်တကွ ဖန်ဆင်း၍ ပြပေ၏။ မင်းကြီးသည် မအိပ်ဘဲ ခုနစ်ရက်ပတ်လုံးဖူးမြော်ပူဇော်သည်ဟု ကျမ်းဂန်များတွင်လာ၏။

သီဟိုဠ်၌ ဖုဿဒေ၀မထေရ်ကြီးသည် မာရ်နတ်ကြီးနှင့်တွေ့ကြရာတွင် မြတ်စွာဘုရားအသွင်တော်ကိုဖန်ဆင်း၍ပြပါဟု မာရ်နတ်ကြီးကိုဆိုပေ၏။ မာရ်နတ်သည် လက္ခဏာကြီးငယ် ရောင်ခြည်တော်ခြောက်သွယ်နှင့်တကွ ဖန်ဆင်း၍ပြလေ၏။ မထေရ်ကြီးသည် ဘုရားအသွင်တော်ကိုမြင်ရလျှင် မာရ်နတ်မှန်းသိလျက်နှင့်ပင် ရှိမခိုးဘဲမနေနိုင်၊ ရှိခိုးလေ၏။ မာရ်နတ်သည် မထေရ်၏ရှိခိုးခြင်းကိုမခံနိုင်၍ ချက်ချင်းကွယ်ပျောက်ရလေသည်ဟု ကျမ်းဂန်တို့၌လာ၏။

ဤ၀တ္ထုတို့၌ ကာလနဂါးကြီးသည် တိရစ္ဆာန်မျိုးဖြစ်၏။ မာရ်နတ်ကြီးသည်လည်း ဘုရား၏ရန်သူတော်ကြီးဖြစ်၏။ ထိုသို့ဖြစ်ပါလျက် အသွင်တော်ကိုမြင်ရသည့်အတွက် ဓမ္မာသောကမင်းကြီး၊ ဖုဿဒေ၀မထေရ်ကြီးတို့သည် ရှိခိုးပူဇော်ခြင်းကိုပြုကြလေ၏။ အသွင်သဏ္ဌာန်သည် ဤမျှလောက်သဒ္ဓါတရားကိုဖြစ်ပွားစေနိုင်၏။ ဤ၀တ္ထုများကိုထောက်သဖြင့် သစ်သား,ကျောက်,ကြေး,ရွှေ,ငွေ၀တ္ထုများသည် ပမာဏမဟုတ်၊ အသွင်သဏ္ဌာန်တော်သည်သာပမာဏဖြစ်၏ဟု ထင်ရှားလေ၏။

ဘုရား၏အသွင်သဏ္ဌာန်တော်ဟု သိလျက်သားနှင့် ပြစ်မှားကျူးလွန်ပြုမိလျှင်လည်း အလွန်အပြစ်ကြီး၏။ သက်တော်ထင်ရှားရှိသောမြတ်စွာဘုရားကို ပြစ်မှားသည်နှင့်အလားတူ၏။ ဤရုပ်ပွားဆင်းတုကိုးကွယ်မှု ဖြေရှင်းချက်သည် ဆရာတော်ယခုရေးသားစီရင်ပြီးစီးလျက်ရှိနေသော ဝိဝါဒဝိသောဓနီကျမ်းသစ် *၁ မှာလည်း ပါရှိလေ၏။

*၁ သာသနဝိသောဓနီကျမ်းကိုဆိုလိုပါသည်။

ဤရုပ်ပွားဆင်းတုပဋ္ဌာအဖြေကို သက္ကရာဇ် ၁၂၈၁–ခုနှစ်၊ ကဆုန်လဆန်း ၁၂–ရက် (အေဒီ–၁၀၊ မေလ၊ ၁၉၁၉–ခုနှစ်)တွင် ဖြေဆိုပြီးစီးပါသည်။*၁

## စတုပညာသမဝါဆိုတော်မူခြင်း

လယ်တီဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၈၁–ခုနှစ်၊ နယုန်လ (အေဒီ ၁၉၁၉–ခုနှစ်၊ မေလ)တွင် ရန်ကုန်မြို့မှ ဥပါသကာ, ဥပါသိကာများကပင့်လျှောက်သဖြင့် ရန်ကုန်မြို့သို့ ကြွတော်မူခဲ့ပါသည်။ ကြွတော်မူရခြင်းအကြောင်းမှာ ရန်ကုန်မြို့မှ တရုတ်လူမျိုးသူဌေးကြီး ချန်မာဖီး (Cham Ma Phee)*၂ အမှူးရှိသောဥပါသကာကြီးများက ဆရာတော်ဘုရားကြီး၏စက္ခုတော်ကိုကုသရန်အလို့ငှာ ဆေးဆရာများတွေ့ရှိထားသည့်အတွက် ဆရာတော်ဘုရားကြီးအား ဆေးကုသပေးလိုကြ၍ ပင့်ဖိတ်သောကြောင့်ဖြစ်လေသည်။ သို့ဖြင့် ဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၈၁–ခုနှစ်၊ နယုန်လတွင် ရန်ကုန်မြို့သို့ကြွတော်မူခဲ့ပြီးနောက် မာဖီးသူဌေးကြီး၏ ဆင်လမ်း ခြံအမှတ်(၃၃)ရှိ လယ်တီစံကျောင်း၌ ခေတ္တသီတင်းသုံးနေတော်မူပါသည်။ သက္ကရာဇ် ၁၂၈၁–ခုနှစ်၊ ဝါတွင်းကာလ (အေဒီ ၁၉၁၉–ခုနှစ်၊ ဇူလိုင်လ)သို့ရောက်သောအခါ ရန်ကုန်မြို့ ကျောက်(ကျိုက်)ဝိုင်းဘုရား*၃ အနီး ယာယီစံကျောင်း၌ (၅၄)ကြိမ်မြောက် စတုပညာသမဝါကို ကပ်တော်မူခဲ့ပါသည်။*၄

## ရန်ကုန်မြို့၌သီတင်းသုံးနေစဉ်

လယ်တီဆရာတော်ဘုရားကြီးသည် ရန်ကုန်မြို့တွင် ဝါကပ်သီတင်းသုံးနေတော်မူစဉ်တွင် တရုတ်သူဌေး လင်ချင်းချောင်း(Lin Chin Tsong)*၅ ဆောက်လုပ်ပြီးစဖြစ်သော အင်းလျားကန်

---

*၁ လယ်တီဆရာတော်ကြီး၏ နိယာမဒီပနီနှင့် ရုပ်ပွားဆင်းတုပဋ္ဌာအဖြေကျမ်း။ (စာမျက်နှာ ၁၄–၁၇)။

*၂ သူဌေးကြီးချန်မာဖီး၏ဇနီးသည် ဒေါ်အေးမြသည် ဗုဒ္ဓဘာသာဝင် မြန်မာအမျိုးသမီးဖြစ်ပြီး၊ ထိုဇနီးမောင်နှံတို့သည် ဆရာတော်ဘုရားကြီးအား လွန်စွာကြည်ညိုသူများဖြစ်သည်။ ချန်မာဖီးသူဌေးကြီးအကြောင်းကို Arnold Wright (ed.)' Twentieth Century Impressions of Burma. 1910. Page 309-311 တွင်ကြည့်ပါ။

*၃ ရန်ကုန်မြို့ မရမ်းကုန်းမြို့နယ် ရှစ်မိုင်လမ်းဆုံနှင့် သမိုင်းလမ်းဆုံအကြား၌ရှိသော အပရာဇိတဆံတော်ရှင် ကျိုက်ဝိုင်းစေတီဖြစ်ဟန်ရှိသည်။ ဤကျိုက်ဝိုင်းစေတီကိုပင် ရှေးက ငမိုးရိပ်မိကျောင်း၏အရိုးကို စုပုံ၍ ကျောက်တွေနှင့်ဝိုင်း ဘုရားတည်ခဲ့သဖြင့် ကျောက်ဝိုင်းဟုလည်းတွင်ကြောင်း ပါးစပ်သမိုင်းရှိသည်။ မော်ပီဆရာသိန်း၏စာပေါင်းချုပ်။ ဝါမိုးအောင်စာပေ၊ ရန်ကုန်မြို့။ ၂၀၀၀–ပြည့်နှစ်။ (စာမျက်နှာ–၁၂၀)။

*၄ 'လယ်တီဆရာတော်ဘုရားကြီးသည် ကျိုက်ဝိုင်းစေတီတော်မြောက်ဘက်အနီး ဝတ္တကမြေအတွင်း ကျောင်းသင်္ခမ်းဆောက်လုပ်၍ ၂–နှစ်ကျော်မျှသီတင်းသုံးနေထိုင်ကြောင်း' ဖော်ပြထားသည်။ ဦးအောင်(ဂေါပကအဖွဲ့ဝင်)၏ ကျိုက်ဝိုင်းဘုရားသမိုင်းအကျဉ်းချုပ်။ ကဝိမိတ်ဆွေပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ (စာမျက်နှာ–၂၄)။

*၅ လင်ချင်းချောင်းသည် ရန်ကုန်မြို့၌သာမက သူ့ခေတ်သူ့အခါက ရန်ကုန်, ပီနန်, အမွိုင်(Amoy)ဒေသတို့တွင် ကုန်စည်ကူးသန်းခဲ့သော အလွန်ထင်ရှားသည့်ကုန်သည်သူဌေးကြီးဖြစ်သည်။ စက်လှေသင်္ဘောများစွာကိုလည်းပိုင်ဆိုင်သူဖြစ်သည်။ သူ့အကြောင်းကို Arnold Wright (ed.)' Twentieth Century Impressions of Burma. 1910. Page 288-306 တွင်ကြည့်ပါ။

အနီးရှိ အဆောက်အအုံသစ်(ချင်းချောင်းနန်းတော်)[*၁] သို့လည်း လင်ချင်းချောင်းပင့်ဆောင်ခဲ့သဖြင့် ခေတ္တကြွရောက်သီတင်းသုံးနေတော်မူရပါသည်။

ထိုစဉ်အခါ ဆရာတော်ဘုရားကြီးနှင့်အတူလိုက်ပါလာသော သိမ်တောင်ဆည်ကြီးဆရာတော် ဦးဇဝန[*၂] သည် ရန်ကုန်မြို့တစ်ဖက်ကမ်း ဒလပျော်ဘွယ်ကြီးရွာသို့ ကံ-ဒွါရဟူသော နှစ်ဖက် ဒါယကာတို့ အဆက်အစပ်မိသွားစေရန် တရားဟောကြွသွားရာ တစ်ရက်,နှစ်ရက်ခန့်ကြာခဲ့သည်။ ထိုဒလပျော်ဘွယ်ကြီးမှပြန်ကြွလာ၍ ဆရာတော်ဘုရားကြီးသီတင်းသုံးရာ ချင်းချောင်းစံကျောင်းသို့ ဝင်ရောက်ဦးခိုက်သောအခါ ဆရာတော်ဘုရားကြီးက 'ငါ့တပည့် ဘယ်သွားနေသလဲ'ဟု မေးတော်မူပါသည်။

သိမ်တောင်ဆည်ကြီးဆရာတော်က 'ဘုရားတပည့်တော် ဒလပျော်ဘွယ်ကြီးမြို့သို့သွား၍ တရားဟောနေပါသည်ဘုရား'ဟု လျှောက်ထားသောအခါ 'ဘာတရားများဟောခဲ့သလဲကွယ့်' ဟု မေးတော်မူပြန်ပါသည်။ ဆည်ကြီးဆရာတော်က 'ကံနှင့်ဒွါရစပ်မိအောင် ဟောခဲ့ပါသည် ဘုရား'ဟူ၍လျှောက်သော်၊ 'ကဲ-ငါ့တပည့် ဘယ်လိုဟောခဲ့တယ်ဆိုတာ ဆရာသိရအောင် ဟောပြစမ်း'ဟုဆိုတော်မူသဖြင့် အောက်ပါအတိုင်း တရားပွဲကျင်းပရပုံအကြောင်းမှစ၍ တရားဟောပြောပုံတို့ကို ရှင်းလင်းလျှောက်ထားရလေသည်။[*၃]

ရန်ကုန်မြို့တစ်ဖက်ကမ်း ဒလပျော်ဘွယ်ကြီးမြို့၌ ကံအိမ်ခြေငါးရာ၊ ဒွါရ အိမ်ခြေငါးရာ အားလုံးတစ်ထောင်ရှိပေသည်။ ထိုမြို့က ကံဦးဘိုးသက်ကပင့်၍ တပည့်တော်ကြွသွားရာ ပျော်ဘွယ်ကြီးမြို့သို့ရောက်သောအခါ ဒွါရဒါယကာဦးဘိုးမြကလျှောက်ထားသည်မှာ- 'ဆရာတော်ဘုရား ဘယ်ဂိုဏ်းကပါလဲဘုရား'ဟု လျှောက်ထားလေသည်။ တပည့်တော်က 'ဘယ်ဂိုဏ်းကမှမဟုတ်၊ ဘုရားသားတော်ပဲ'ဟု အမိန့်ရှိရာ၊ ထိုအခါ ဒွါရဦးဘိုးမြက- 'ကံ၊ ဒွါရ၊ ရွှေကျင်၊ သုဓမ္မာ၊ ငှက်တွင်း-ဟု ဂိုဏ်းအမျိုးမျိုးရှိပါသည်ဘုရား၊ ဆရာတော်ဘုရားက ဘယ်ဂိုဏ်းကပါလဲဘုရား'ဟု ထပ်၍လျှောက်ထားလေသည်။

ထိုအခါ တပည့်တော်က- 'ဒါယကာလျှောက်ထားသည်မှာ ဂိုဏ်းစွဲနှင့်လျှောက် ထားလေသည်။ ဂိုဏ်းဆိုတာ ပညတ်တင်စား၍ခေါ်ကာမျှသာဖြစ်သည်။ သံဃာ တော်ကိုးကွယ်ခြင်းသည် ဂိုဏ်းစွဲ,ပုဂ္ဂိုလ်ဒိဋ္ဌိစွဲပျောက်အောင် ကိုးကွယ်ခြင်းဖြစ်သည် မဟုတ်လော။ ဂိုဏ်းအကြောင်းကို ထင်ရှားပြမည်။ ယခု ကျောင်းရှေ့က တလင်း ပြောင်ကြီးမှာ ဘာရှိသလဲ'ဟုမေးသောအခါ 'ဘာမျှမရှိပါဘုရား'ဟု လျှောက်ထား ကြလေသည်။

---

*၁ နောင်အခါ 'ကမ္ဘောဇနန်းတော်'ဟု ခေါ်ကြသည်။ ယခု ယဉ်ကျေးမှုဝန်ကြီးဌာနအဆောက်အအုံဖြစ်သည်။

*၂ ဆရာတော်ဦးဇဝနသည် အင်းမကြီးဆရာတော်၏လက်ဦးတပည့် လက်ရုံးကြီးတစ်ဆူဖြစ်သည်။ သက္ကရာဇ်-၁၂၄၄ (အေဒီ-၁၈၈၂)ခုနှစ်ဖွားဖြစ်သည်။ ဓမ္မာစရိယဦးဌေးလှိုင်၏ရဟန္တာ ၁နှင့်ပုဂ္ဂိုလ်ထူးများ။ ၁၉၈၉-ခုနှစ်။ (စာမျက်နှာ ၅၉၂-၆၀၃)။

*၃ ဤလျှောက်ထားချက်တို့မှာ သိမ်တောင်ဆည်ကြီးကိုယ်တော်တိုင် ရေးသားထားသည့်အတိုင်းမှ ထုတ်နုတ်ဖော်ပြထား ခြင်းဖြစ်ပါသည်။



မစ္စတာလင်ချင်းချောင်း



မစ္စတာချန်မာဖီး



ဒလမြို့၊ ဒါယကာကြီး ဦးဘိုးသက်



ချင်းချောင်းနန်းတော်

'ဘာမျှမရှိလျှင် ဘာဂိုဏ်းလို့ခေါ်စရာတွေ့ရဲ့လား'ဟု မေးသောအခါ ဒွါရကိုဘိုးမြက 'ဘာဂိုဏ်းမျှ ခေါ်စရာရှာလို့မတွေ့ပါဘုရား'လို့ လျှောက်ထားလေသည်။

ထိုအခါ တပည့်တော်က ဒွါရဒါယကာကိုဘိုးမြနှင့် ကံဒါယကာကိုဘိုးသက်တို့ကို 'ဘာမျှမရှိတဲ့ ကျောင်းတလင်းကြီးထဲမှာ ဗောဓိပင်ကို သဘောတူစိုက်ပျိုးကြရမည်။ နေ့စဉ်မပြတ် ရေလောင်းပေးရမည်။ တော်တော်ကြာတော့ အငြောင့်ကလေးတွေထွက်လာလိမ့်မည်။ ထို့နောက် အရွက်ကလေးတွေထွက်လာလိမ့်မည်။ ထို့နောက် ပင်လုံးထွက်လာလိမ့်မည်။ ထို့နောက် အရှေ့စူးစူးရားရား အထက်စူးစူးရားရား ငါးဌာနထွက်ပေါ်လာလိမ့်မည်။ အရှေ့စူးစူးရားရားထွက်လာတာကို ဘာလို့ခေါ်ကြမလဲ'ဟု ဆရာတော်ကမေးသောအခါ 'အရှေ့ဂိုဏ်း(ကိုင်း)ဟုခေါ်ပါသည်ဘုရား'ဟု ဒွါရကိုဘိုးမြက လျှောက်ထားလေသည်။

ထိုအခါ တပည့်တော်က အရှေ့ဂိုဏ်း(ကိုင်း)ဟုထင်မှတ်နေသောဂိုဏ်းကို ကံ၊ ဒွါရ နှစ်ယောက်စလုံးကို ထိုဂိုဏ်း(ကိုင်း)ကို လက်နှင့်ကိုင်၍ပေး။

'အသင့်ကို ငါတို့က အရှေ့ဂိုဏ်း(ကိုင်း)မှတ်နေသည်။ အသင် အရှေ့ဂိုဏ်း(ကိုင်း)ဟုတ်ရဲ့လားလို့မေး။ ခင်ဗျားတို့လက်နှင့်ကိုင်ထားတာ ဘာကိုတွေ့သလဲ။ တွေ့တာကိုပြောပါ။ နူးညံ့မှုသဘောသတ္တိကလေးကိုတွေ့သလား။ မာမှု သဘောသတ္တိကလေးကိုတွေ့သလား'။

'နူးညံ့မှုသဘောသတ္တိကလေးကိုသာ တွေ့ပေသည်။ နူးညံ့မှုသဘောသတ္တိကလေးဟာ ကျွန်တော်(မြေဓာတ်ပရမတ်အစစ်ဖြစ်ပေသည်။) ကျွန်တော်သည်သာလျှင် အဟုတ်ရှိ၊ အမှန်ရှိဖြစ်ပေသည်။ အရှေ့ဂိုဏ်း(ကိုင်း)ဆိုတာ ကျွန်တော် ဘယ်အခါမှ မတွေ့ဘူး မကြားဘူးပါ။ ခင်ဗျားတို့စိတ်က မှားသောသိခြင်းကို အဟုတ်ထင်မှတ်နေကြသည်။ ထိုကဲ့သို့ မှားသောသိခြင်းကို(စိတ္တဝိပ္ပလ္လာသ)ဟုခေါ်သည်။ မှားသောမှတ်ယူခြင်းကို(ဒိဋ္ဌိဝိပ္ပလ္လာသ)ဟုခေါ်သည်။ ထိုဝိပ္ပလ္လာသတရားသုံးပါး ရှိသမျှကာလပတ်လုံး အန္ဓပုထုဇဉ်တို့၏စိတ်မှာ ဘယ်အခါမှ အဟုတ်ရှိ၊အမှန်ရှိကို မသိ၊ မမြင်နိုင်ကြပေ'။

'အရှေ့ဂိုဏ်း(ကိုင်း), အနောက်ဂိုဏ်း(ကိုင်း), တောင်ဂိုဏ်း(ကိုင်း), မြောက်ဂိုဏ်း(ကိုင်း), အထက်ဂိုဏ်း(ကိုင်း) ပင်မကြီးများနှင့်တကွ အမြစ်မကျန် ဓာတ်ဉာဏ်အလင်းပေါက်အောင် ကြည့်လိုက်ကြစမ်း'ဟု တပည့်တော်ကအမိန့်ရှိသောအခါ 'ဂိုဏ်း(ကိုင်း)ဆိုတာ ရှာလို့မတွေ့တော့ပါဘုရား'ဟု ဒွါရကိုဘိုးမြနှင့် ကံကိုဘိုးသက်တို့က လျှောက်ထားကြလေသည်။

'သို့အတွက် တပည့်တော်တို့သည် ဂိုဏ်းစွဲ ပုဂ္ဂိုလ်စွဲနှင့် ကိုးကွယ်လာကြသည်မှာ– ဝိပ္ပလ္လာသသုံးပါး မျက်လှည့်သမားသုံးယောက်တို့က မှားသောသိခြင်း၊ မှား

သောမှတ်ခြင်း၊ မှားသောယူခြင်း ယူရမည်ဟုခိုင်းထားသောကြောင့် ထိုကဲ့သို့ အမှားမှား အယွင်းယွင်း ယူမိပါသည်ဘုရား။ ယခုနေ့ကစ၍ ထိုကဲ့သို့ မှားယွင်းဖောက်ပြန်သောအယူကို ဂိုဏ်းစွဲ ပုဂ္ဂိုလ်စွဲနှင့် မယူတော့ပါဘုရား'ဟု လျှောက်ထားကြလေသည်။ 'ထိုတရားတော်မြတ်ကြီးကို တပည့်တော်တို့ကဲ့သို့သိရှိနားလည်ကြစေရန် မေတ္တာကရုဏာရှေ့ထား၍ သနားသောအားဖြင့် ယခုည မြို့လယ်ဓမ္မာရုံကြီးမှာ တပည့်တော်တို့ ဟောကြားဆုံးမတော်မူသော တရားတော်မြတ်ကြီးအတိုင်း ဟောတော်မူပါမည့်အကြောင်း' လျှောက်ထားတောင်းပန်ကြလေသည်။

ဒွါရဒါယကာကိုဘိုးမြက 'ဒွါရအိမ်ခြေ ၅၀၀ ကို အကုန်ဖိတ်ပါမည်ဘုရား'။ ကံဒါယကာကိုဘိုးသက်က 'ကံအိမ်ခြေ ၅၀၀ ကို တပည့်တော်က အကုန်ဖိတ်ပါမည်ဘုရား'ဟု လျှောက်ထားတောင်းပန်ကြသည့်အတိုင်း မြို့လယ်ဓမ္မာရုံကြီးမှာ တရားပွဲကျင်းပရာ တရားနာပရိသတ်လူပေါင်း ၅၀၀၀ လောက်ရှိပေလိမ့်မည်။

ခေတ်ရှစ်ပါးကို ပဓာနထား၍ အကျယ်တဝင့်ဟောကြားပါသည်။ ထို့ပြင် သမထဝိပဿနာ ရုပ်နာမ်ဓမ္မသင်္ခါရတရားများကို သဘာဝဓမ္မဉာဏ်ဝမှာ ကောင်းစွာထင်မြင်အောင် ဟောကြားဆုံးမတော်မူပါသည်၊ တရားနာပြီးသည့်နောက် အိမ်မပြန်ဘဲ တပည့်တော်၏အနီး တရားအားထုတ်ကြသော ဒါယကာ,ဒါယိကာမပေါင်းများစွာ အားထုတ်ကြလေသည်။ မြို့သူကြီးများနှင့် အော်လကောက်ဆရာကြီးများ၏တပည့်ကျောင်းဆရာကြီး ကမ္ဗဋ္ဌာန်းဆရာကြီးဦးပေထုံတို့ပါ ညစဉ် ဝိပဿနာတရားအားထုတ်ကြလေသည်။ ဒွါရဒါယကာ, ဒါယိကာမတွေက သာ၍များပေသည်။ ခုနစ်ရက်ဆက်၍ ဟောတော်မူပါသည်။

ဆွမ်းရှစ်သောင်းလေးထောင်လှူနေဆဲဖြစ်၍ နေ့စဉ်ဆွမ်းခံ၍ ဒွါရအိမ်ခြေ ၅၀၀ တစ်ရက်၊ ကံအိမ်ခြေ ၅၀၀ တစ်ရက်စီ အလှည့်ကျဆွမ်းခံပါသည်။ တစ်နေ့တစ်နေ့လျှင် ဆွမ်းတင်းပေါင်း ၃၀၀ လောက်ရရှိပေလိမ့်မည်။ ကံ,ဒွါရဆရာတော်များကို နေ့စဉ်လှူဒါန်းပေသည်။ ဓမ္မာရုံတွင်းက ဘုရားရှင်ကိုယ်တော်များနှင့်တကွဂင်္ဂါမြစ်တွင်းရှိ သဲလုံးမျှမကပွင့်တော်မူပြီးသော ဘုရား,ရဟန္တာ ဓမ္မက္ခန္ဓာအပေါင်းရှစ်သောင်းလေးထောင်ကိုအမှတ်ပြု၍ ဘုရားရှေ့တော်မှာ စားပွဲခုံများစွာနှင့် လှူဒါန်းခဲ့ရပေသည်။ ခုနစ်ရက်စေ့သောအခါ ဒွါရဒါယကာကိုဘိုးမြက ကံဆရာတော်၊ ဒွါရဆရာတော်ကြီးများကို အားလုံးပင့်၍ ဆွမ်းအတူကပ်လှူလေသည်။ ကံ,ဒွါရဒါယကာ,ဒါယိကာမအပေါင်းတို့ကို အားလုံးဖိတ်ကြား၍ အတူတကွကျွေးမွေးခြင်းအလှူတော်ကြီးကို တပည့်တော်ရှိစဉ်ပင်လှူဒါန်းလေသည်။ သို့အတွက် ကံနှင့်ဒွါရသည် နွားနို့နှင့်ရေ ရောမိသကဲ့သို့ ကံ-ဒွါရ တစ်သားတည်းဖြစ်သွားကြပါသည်။ များစွာသောရဟန်းရှင်လူအပေါင်းတို့ များစွာသာဓုခေါ်ကြပေသည်'ဟူ၍ လျှောက်ထားတော်မူလေသည်။

ထိုသောအခါ လယ်တီဆရာတော်ဘုရားကြီးက 'ငါဆရာတော် အုတ်ဖိုမြို့၌ ကံ့ဒွါရ စပ်မိအောင်ဟောသော်လည်း မစပ်မိခဲ့ပေ'ဟူ၍ အမိန့်ရှိတော်မူပြီး သာဓုခေါ်တော်မူပါသည်။*၁

ထိုအချိန်တွင် သိမ်တောင်ဆည်ကြီးဆရာတော်ဦးဇဝနနှင့်အတူ ဒလပျော်ဘွယ်ကြီးမှနေ၍ အတူလိုက်ပါလာသော ဒလပျော်ဘွယ်ကြီးရွာသား ကံဒါယကာကိုဘိုးသက်*၂ ကလည်း လယ်တီဆရာတော်ဘုရားကြီးအား ဖူးမြော်ကန်တော့ခွင့်ရခဲ့သည်။

လယ်တီဆရာတော်ဘုရားကြီးသည် သူဌေးလင်ချင်းချောင်း၏ စံအိမ်တော်ကြီးပေါ်၌ သီတင်းသုံးနေတော်မူစဉ် ထိုစံအိမ်တော်၌ ခြွေရံလူသူများပြားလှ၍ မွေ့လျော်ခြင်းမရှိသောအခါ အင်းလျားကန်စပ် ကန်ဖျားအရပ်၌ စံကျောင်းတော်ဆောက်လုပ်လှူဒါန်းထားရာ ထိုကန်ဖျားစံကျောင်း*၃ သို့လည်း ရံခါကြွရောက်၍သီတင်းသုံးနေတော်မူလေ့ပါသည်။

## အရှင်အာဒိစ္စဝံသနှင့် ရှင်သေဋ္ဌိလ

လယ်တီဆရာတော်ဘုရားကြီးသည် ရန်ကုန်မြို့ အင်းလျားကန်ဖျားစံကျောင်းတော်၌ ခေတ္တသီတင်းသုံးနေတော်မူစဉ် ရန်ကုန်မြို့ တောင်လုံးပြန် မြန်မာသုသာန်ဟောင်းကြီးအနီး၌ 'အရှင်အာဒိစ္စဝံသကျောင်းတိုက်'*၄ ဟူသောအမည်ဖြင့် ကျောင်းတည်ထောင်နေသော အရှင်အာဒိစ္စဝံသ*၅ သည် ဆရာတော်ဘုရားကြီးအား ဆရာရင်းတစ်ဆူအဖြစ် အလေးအမြတ်ထားတော်

*၁ သိမ်တောင်ဆည်ကြီးဆရာတော်၏အရိယာဝိဇ္ဇာမဂ္ဂအလင်းပြကျမ်း။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ ၁၀–၂၀)။

*၂ နောင်အခါ အနာဂါမ်ဆရာသက်ဟုထင်ရှားသောပုဂ္ဂိုလ်ကြီးဖြစ်ပါသည်။ ဆရာသက်ကြီးသည် သိမ်တောင်ဆည်ကြီးဆရာတော်ဦးဇဝနနှင့်အတူ ဒလပျော်ဘွယ်ကြီးမှ တရားအားထုတ်ရန်ရည်ရွယ်ချက်ဖြင့် ရန်ကုန်မြို့သို့လိုက်ပါလာ၍ လယ်တီဆရာတော်ဘုရားကြီးအား ကန်တော့ပြီး၊ သထုံမြို့ နေမိန္ဒြတောင်သို့သွား၍ သမထဝိပဿနာတရားအားထုတ်သည်။ ၎င်းကအပြန် ရွှေမြို့ ရွှေဒေါင်းတောရ ဦးကုသလထံ၌ တရားအားထုတ်နေခဲ့သည်။ ထိုမှတစ်ဖန် ဒလပျော်ဘွယ်ကြီးသို့ပြန်ခဲ့၍ ကမ္မဋ္ဌာန်းဌာနဖွင့်ကြောင်း–တို့ကို သိမ်တောင်ဆည်ကြီးဆရာတော်က ရေးသားခဲ့ပါသည်။ သိမ်တောင်ဆည်ကြီးဆရာတော်၏ အရိယာဝိဇ္ဇာမဂ္ဂအလင်းပြကျမ်း။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ–၂၃၊ ၂၄)တွင်ကြည့်ပါ။

*၃ လယ်တီဆရာတော် သီတင်းသုံးနေတော်မူခဲ့သော အင်းလျားကန်ဖျားစံကျောင်းနေရာသည် ယခု တောင်ပုလုဆရာတော်ကြီး၏စံကျောင်းတည်ရှိရာ ကန်ဖျားကျောင်းနေရာပင်ဖြစ်သည်။

*၄ ဤကျောင်းကို အရပ်က သုသာန်ဟောင်းအနီးတည်ရှိ၍ 'သုသာန်ကျောင်း'၊ ဆာဘိုးသာလှူသောဇရပ်၌တည်ထား၍ 'ဇရပ်ကျောင်း'၊ ကျောင်းတည်ဆရာတော် အရှင်အာဒိစ္စဝံသသည် မော်လမြိုင်မှလာသောကြောင့် 'မော်လမြိုင်ကျောင်း' ဟူ၍လည်း ခေါ်တွင်ခဲ့ကြသည်။

*၅ နောင်အခါ အရှင်အာဒိစ္စဝံသဘွဲ့မည်ခံ ဆရာကြီးဦးအောင်မြတ်ထွတ်ဟူသောအမည်ဖြင့် ထင်ရှားသောပုဂ္ဂိုလ်ဖြစ်ပါသည်။ သက္ကရာဇ်–၁၂၄၄(အေဒီ ၁၈၈၂–ခုနှစ်) ဖွားဖြစ်သည်။ ပျော်ဘွယ်မြို့၌ ၁၂၆၃ (အေဒီ–၁၉၀၁)ခုနှစ်တွင်ရဟန်းဖြစ်ပြီး၊ မန္တလေးမြို့၌ ပညာသင်ယူရာ ရဟန်း ၅–ဝါအရတွင် ပိဋကတ်စာပေနှံ့စပ်ကျွမ်းကျင်သူဖြစ်ခဲ့သည်။ ထို့နောက် ညောင်တုန်း ရွှေဟင်္သာတောရ ဒီကာကျော် ယောဇနာကျမ်းပြုဆရာ အရှင်ဉာဏိန္ဒာသဘထံတွင် တပည့်ခံနေခဲ့သည်။ ရဟန်း ၉–ဝါအရတွင် ပဒသင်္ဂဟပါဠိကိုရေး၍ လယ်တီ ဆရာတော်ဘုရားကြီးလက်တော်သို့ ဆက်သခဲ့သည်။ လယ်တီဆရာတော်ဘုရားကြီးတိုက်တွန်း၍ ပဒသင်္ဂဟပါဠိနိဿယကို ၁၂၇၈–ခုနှစ်တွင်ရေးသားခဲ့သည်။ ၁၂၇၉–ခုနှစ်တွင် ရန်ကုန်မြို့၌ အရှင်အာဒိစ္စဝံသကျောင်းကိုတည်ထောင်ခဲ့သည်။ မြင့်ဆွေ၏ ဆရာတော်အရှင်အာဒိစ္စဝံသအတ္ထုပ္ပတ္တိ။ မြန်မာပြည်စာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၅–ခုနှစ်။ (စာမျက်နှာ ၄၈–၇၄)။



ပဌမကျော်အရှင်သေဠိလ




အရှင်အာဒိစ္စဝံသ

---

ကျေးဇူးရှင်

# လယ်တီဆရာတော်ဘုရားကြီး

ရေးသားဆုံးဖြတ်တော်မူအပ်သော

## ဗုဒ္ဓဘာသာအရှိုးကျ၊

## စေတီယင်္ဂဏဝိနိစ္ဆယကျမ်း။

———o———

(အသျှင်-မန်လည်ဆရာတော်ဘုရားကြီး

သဘောတူညီချက်အရ

ကောင်းစွာပုံနှိပ်လုပ်ဆောင်ပါသည်၊)

၁၂၇၂–ခုနှစ်အတွင်းပုံနှိပ်သည်၊

ရန်ကုန်မြို့၊ ၂၂–လမ်း တိုက်နံပါတ်–၂၈၊

မင်္ဂလာတိုင်းစာပုံနှိပ်တိုက်။

1

မူသည့်အတိုင်း ခြေတော်ရင်းသို့လာရောက်၍ ဦးခိုက်ခဲ့လေသည်။ အရှင်အာဒိစ္စဝံသနှင့်အတူ ရုပ်အဆင်းတင့်တယ် သက်တော်ပျိုနုနယ်သောပဥ္စင်းပျိုလေးတစ်ပါးလည်း အတူလိုက်ပါလာသည်။

ဆရာတော်ဘုရားကြီးက အရှင်အာဒိစ္စဝံသအား မိန့်ကြားလိုရာများကို မိန့်ကြားတော်မူပြီးသည့်နောက် လာရင်းကိစ္စကိုမေးမြန်းတော်မူပါသည်။ ထိုအခါ အရှင်အာဒိစ္စဝံသက မိမိ၏နောက်ပါးမှပါလာသောပဥ္စင်းပျိုကိုရည်ရွယ်လျက်–

'ဒီပဥ္စင်းဟာ တပည့်တော်၏တပည့်ပါဘုရား၊ လွန်ခဲ့သောသုံးလေးနှစ်က ဆရာတော်ဘုရားကြီး ပျဉ်းမနားစံကျောင်း၌စံနေတော်မူစဉ်က လာရောက်၍အပ်နှံခဲ့သော ကိုရင်ကလေးမှာလည်း ဒီပဥ္စင်းပင်ဖြစ်ပါသည်ဘုရား၊ ယခုနှစ် ပဌမကျော်ဖြစ်ပါသည်။*၁ ယခုအခါ ပညာစုံလင်ပြီဖြစ်ပါသဖြင့် ဆရာတော်ဘုရားကြီးထံတော်ပါး လာရောက်အပ်နှံခြင်းဖြစ်ပါသည်ဘုရား' ဟူ၍ လျှောက်ထားလေသည်။ ထိုအခါ လယ်တီဆရာတော်ဘုရားကြီးက–

'ဦးအာဒိစ္စ၊ လွန်ကုန်ပြီကိုယ်တော်၊ ဆရာမှာ မျက်စိကောင်းကောင်းမမြင်၊ သူတစ်ပါးအားကိုးနှင့် အလုပ်တွေလုပ်နေရတယ်။ ဒါကြောင့် ကိုယ်ကမသင်ပြနိုင်ဘဲ တပည့်မွေးဖို့ မတော်ဘူး။ ဒီဦးပဥ္စင်းလေး ဒီမှာနေရင် ဆရာရဲ့အလုပ်ကျွေးပဲဖြစ်တော့မယ်။ ဒီတော့ ဦးအာဒိစ္စပဲဆက်လက်စောင့်ရှောက်ပါ'ဟူ၍ မိန့်တော်မူကာ ထိုပဌမကျော်အရှင်သေဋ္ဌိလ*၂ အား မိမိထံပါး၌ လက်မခံနိုင်ကြောင်း ငြင်းပယ်တော်မူခဲ့ပါသည်။*၃

**စေတီယင်္ဂဏဝိနိစ္ဆယကျမ်း**

သက္ကရာဇ် ၁၂၈၁–ခုနှစ်၊ ပြာသိုလပြည့်ကျော် ၈–ရက် (အေဒီ–၁၂၊ ဇန်နဝါရီလ၊ ၁၉၂၀–ပြည့်နှစ်)တွင် လယ်တီဆရာတော်ဘုရားကြီးသည် ရန်ကုန်မြို့ ပုဇွန်တောင်ရပ် ညောင်ကုန်းတိုက် လယ်တီစံကျောင်း၌ သီတင်းသုံးနေတော်မူစဉ် ဘုရားစေတီရင်ပြင်တို့၌ ဖိနပ်မစီးကြစေရန် တိုက်တွန်းနှိုးဆော်အဆုံးအဖြတ်ပြုသော စေတီယင်္ဂဏဝိနိစ္ဆယကျမ်းကို ရေးသားပြီးစီးတော်မူခဲ့ပါသည်။*၄ ⟶

*၁ ၁၂၈၀–ပြည့်နှစ်၊ နယုန်လပြည့်ကျော် ၁၁–ရက် (အေဒီ–၄၊ ဇွန်လ၊ ၁၉၁၈)ခုနှစ်၌ကျင်းပသော ပါဠိပဌမပြန်ပွဲကြီး၌ ပဌမကျော် အောင်မြင်တော်မူပါသည်။

*၂ နောင်အခါ အဘိဓမ္မမဟာရဋ္ဌဂုရု၊ အဂ္ဂမဟာပဏ္ဍိတ၊ ပဌမကျော်ဘွဲ့တံဆိပ်တော်ရ ကမ္ဘာ့ဗုဒ္ဓသာသနာပြုအရှင်သေဋ္ဌိလာဘိဝံသမဟာထေရ်ကြီးအဖြစ် ယင်ရှားကျော်ကြားခဲ့ပါသည်။ သက္ကရာဇ်–၁၂၅၈ (အေဒီ–၁၈၉၆)ခုနှစ် ပျော်ဘွယ်မြို့ ပုတီးကုန်းဇာတိဖြစ်သည်။ တောင်ငူမြို့ ဇေတဝန်ကျောင်းတိုက်၌ပညာသင်၍ အသက်(၁၆)နှစ်အရွယ်တွင် အရှင်အာဒိစ္စဝံသထံတော်သို့ရောက်ရှိခဲ့ပါသည်။ ပဌမကျော်အရေးပုံ။ ပြည်ကြီးမဏ္ဍိုင်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၀–ပြည့်နှစ်။ (စာမျက်နှာ–၁၄)။

*၃ ဤအချက်ကို ကမ္ဘာ့ဗုဒ္ဓသာသနာပြု အဂ္ဂါဘိဓဇအရှင်သေဋ္ဌိလာဘိဝံသဆရာတော်ဘုရားကြီးကိုယ်တော်တိုင် မိန့်ကြားတော်မူချက်ဖြစ်ပါသည်။

*၄ လယ်တီဆရာတော်ကြီး၏ စေတီယင်္ဂဏဝိနိစ္ဆယကျမ်း။ ပညာ့အလင်းပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၈၂–ခုနှစ်။ (စာမျက်နှာ–၂၈)။

ဤစေတိယင်္ဂဏပြဿနာသည် လွန်ခဲ့သောနှစ်များစွာ သက္ကရာဇ်–၁၂၅၉(အေဒီ–၁၈၉၇) ခုနှစ်ကပင် ဖြစ်ပွားခဲ့သောပြဿနာဖြစ်သည်။[*၁] ဤပြဿနာအစကား အုဂ်ဖိုရ်ဆရာတော်ဘုရားကြီးသည် ပဲခူး ရွှေမော်ဓောဘုရားသို့ ဖိနပ်စီး၍တက်တော်မူခြင်းကဖြစ်သည်ဟုဆိုကြသည်။[*၂] ဤသို့ အုဂ်ဖိုရ်ဆရာတော်ဘုရားကြီး ဖိနပ်စီး၍ဘုရားဖူးသည်ကို ရှေးဦးစွာ ကျောက်စာရုံးစာရေးကြီးဦးဘော[*၃] က 'စေတိယင်္ဂဏဝိနိစ္ဆယ'အမည်ရှိသော ကျမ်းတစ်စောင်ကိုရေး၍ ဝေဖန်ခဲ့ပါသည်။ ဤတွင် အုဂ်ဖိုရ်ဆရာတော်ဘုရားကြီးက ဗုဒ္ဓသရိက္ခစာတမ်း၊ ဟသ်ာတလယ်တီတိုက်အုပ်ဆရာတော်အရှင်ရာဇိန္ဒက ပရဟိတစာတမ်းများရေး၍ တုံ့ပြန်ရှင်းလင်းကြပါသည်။ အောင်မြေဘုံစံဆရာတော်အရှင်စန္ဒိမာက သတ္တုဂုဏ်ရဝစာတမ်းဖြင့် ပြန်လည်ဝေဖန်ရေးသားခဲ့ပြီး၊ ဒွါရအုဂ်ဖိုရ်ဆရာတော်ဘုရားကြီးက အမြိတောဒကစာတမ်း၊ အင်ပူဆရာတော်ကြီး အရှင်ဝိစိတ္တဉာဏိကက ပါဋိဟာရိကစာတမ်းစသည်ရေး၍ ရှင်းလင်းခဲ့ကြပါသည်။[*၄] ဤသို့ တစ်ဖက်နှင့်တစ်ဖက် အပြန်အလှန်စာတမ်းများစွာရေး၍ရှင်းလင်းကြပြီးနောက် အနှစ်–၂၀ တိုင်တိုင်ကြာပါမှ လယ်တီဆရာတော်ကြီးက ဤစေတိယင်္ဂဏဝိနိစ္ဆယကျမ်းကိုရေးသားတော်မူခြင်းဖြစ်ပါသည်။[*၅]

လယ်တီဆရာတော်ဘုရားကြီး၏စေတိယင်္ဂဏဝိနိစ္ဆယ ရေးသားတော်မူခြင်းအကြောင်းနှင့် စပ်လျဉ်း၍ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးရေးသားသည်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

> '၁၂၈၁–ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၅–ရက် (အေဒီ–၆၊ နိုဝင်ဘာလ၊ ၁၉၁၉–ခုနှစ်)ထုတ်ဝေသော ရန်ကုန်ဂေဇက်ခေါ် အင်္ဂလိပ်သတင်းစာ၌ 'ပိဋကတ်ကျမ်းဂန်တတ်မြောက်၍ ကျမ်းပြုပုဂ္ဂိုလ်ကျော် ဥရောပနိုင်ငံတွင်ထင်ရှားကျော်စော

---

[*၁] လယ်တီဆရာတော်ကြီး၏ စေတိယင်္ဂဏဝိနိစ္ဆယကျမ်း။ပညာ့အလင်းပုံနှိပ်တိုက်၊ ရန်ကုန်မြို့။၁၉၈၂–ခုနှစ်။(စာမျက်နှာ–၁)။

[*၂] သီရိသောဘနထေရ်အရှင်၏ သာသနဝံသဒီပနီ။ ၁၃၃၆–ခုနှစ်။ (စာမျက်နှာ–၄၄၅)။ အုဂ်ဖိုရ်ဆရာတော်ကြီးသည် သက္ကရာဇ်–၁၂၅၃ (အေဒီ–၁၈၉၁)ခုနှစ်ကလည်း ပြည်မြို့ ရွှေဆံတော်စေတီတော်သို့ ဖိနပ်စီး၍ အဖူးတက်ခဲ့ပါသည်။ ယင်း။ (စာမျက်နှာ–၄၄၅)။

[*၃] နောင်အခါ သီရိစတုရင်္ဂဗလဘွဲ့ခံ ဝရဇဏမျို့စာမူဖြင့် ဝေလမင်းသားဆုရ ကျောက်စာရုံးစာရေးကြီးဦးဘော–ဟု ထင်ရှားခဲ့ပါသည်။ သက္ကရာဇ်–၁၂၂၃ (အေဒီ–၁၈၆၁)ခုနှစ်ဖွားဖြစ်သည်။ မောင်သုတ၏ စာဆိုတော်များအတ္ထုပ္ပတ္တိ။ ၂၀၀၂–ခုနှစ်။ (စာမျက်နှာ ၃၀၃–၃၀၅)။

[*၄] လယ်တီဆရာတော်ကြီး၏ စေတိယင်္ဂဏဝိနိစ္ဆယကျမ်း။ ပညာ့အလင်းပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၈၂–ခုနှစ်။ (စာမျက်နှာ–၄၆၊ ၄၇)။

[*၅] ယင်း။ (စာမျက်နှာ–၄၇)။ လယ်တီဆရာတော်ဘုရားကြီး 'ဘုရားရင်ပြင်၌ ဖိနပ်မစီးကောင်း'ဟု ရေးသားသည့်အချိန်တွင် အုဂ်ဖိုရ်ဆရာတော်ပျံလွန်တော်မူသည်မှာ (၁၄)နှစ်ရှိခဲ့ပြီ။ ထိုအချိန်၌ အုပ်ချုပ်သူအင်္ဂလိပ်လူမျိုးများ ဘုရားစေတီပေါ် ဖိနပ်စီးတက်သဖြင့် ဗုဒ္ဓဘာသာဝင်ပြည်သူလူထုက မကျေနပ်၍ဆူပူနေချိန်ဖြစ်သည်။ အေဒီ ၁၉၁၇–ခုနှစ်၊ ဇူလိုင်လ ၅–ရက်နေ့ ပဲခူးလျှောင်ကြောင့် ရွှေမော်ဓောစေတီပြိုကျရာ ဘုရင်ခံ ကရက်ဒေါက် ဖိနပ်စီး၍ ဘုရားကြီးကိုတက်ကြည့်၍ ဗုဒ္ဓဘာသာဝင်မြန်မာလူမျိုးများ မကျေမနပ်ဖြစ်ကြသည်။ ၁၉၁၉–ခုနှစ်၊ အောက်တိုဘာ ၂၉–ရက်နေ့တွင် အင်္ဂလိပ်အစိုးရက 'ဝတ္ထုကမြေအတွင်း နိုင်ငံခြားသားများဖိနပ်မစီးရ'ဟု အမိန့်ထုတ်ထားရသည်။ သို့ဖြစ်၍ လယ်တီဆရာတော်ဘုရားကြီး ဤစေတိယင်္ဂဏဝိနိစ္ဆယကျမ်းကို အုဂ်ဖိုရ်ဆရာတော်ကြီးအားရည်ရွယ်ခြင်းထက် လက်ငင်းအနေဖြင့် အင်္ဂလိပ်တို့ ဘုရာပေါ်သို့ဖိနပ်စီးတက်သည်ကိုမနှစ်သက်၍ ရေးသားတော်မူခြင်းဖြစ်တန်ရာသည်။

သော လယ်တီဆရာတော်ဘုရားကြီးသည်လည်း စေတီရင်ပြင်တော်၌ ဖိနပ်စီးနင်းခြင်းကို သဘောကျကျေနပ်တော်မူကြောင်း’ဟု ရေးသားဖော်ပြသဖြင့် ထို ရန်ကုန်ဂေဇက်သတင်းစာကို တပည့်များက ဖတ်ကြားလျှောက်တင်ကြလေသည်။

ထိုအခါ အရှင်လယ်တီဆရာတော်ဘုရားကြီးက ‘ရန်ကုန်ဂေဇက်သတင်းစာက စွပ်စွဲသည့်အတိုင်း ငါ သဘောနှစ်သက်သည်မဟုတ်၊ ပိဋကတ်ကျမ်းဂန် အထင်အရှားရှိပြီးဖြစ်၍ ထိုကျမ်းဂန်များအတိုင်းသာ သဘောနှစ်သက်သည်’ဟု မိန့်တော်မူပြီးလျှင် အကျယ်အားဖြင့်လည်း ပိဋကတ်ကျမ်းဂန်အကိုးအကားနှင့်တကွ မိန့်ဆိုပြောဟောတော်မူလေသည်။ ဤသို့ မိန့်ဆိုတော်မူသောအချက်များကိုလည်း မြန်မာသတင်းစာများတွင် လယ်တီဆရာတော်ဘုရားကြီး၏တပည့် လယ်တီဝိမလက ရေးသားထည့်သွင်းဖော်ပြဖူးလေသည်။

ထို့နောက် ရဟန်းတပည့်, လူတပည့်အပေါင်းများစွာတို့အား နှုတ်ဖြင့်မိန့်ကြားတော်မူသည်ထက် အဆုံးအဖြတ်တစ်စောင် ရေးသားထားတော်မူပါလျှင် နောင်လာနောက်သားတို့ မှတ်သားထားကြရမည်ဖြစ်သည့်ပြင် သာသနာတော်အစဉ်မှာလည်း အကျိုးများဖို့ပင်ဖြစ်ပါသည်။ ဤစေတိယင်္ဂဏအရေးမှာ မြန်မာပြည်နှင့် များစွာသက်ဆိုင်လျက်ရှိသဖြင့် ဗုဒ္ဓဘာသာအရိုးကျ ကျမ်းဂန်သာဝကများနှင့် ရေးသားတော်မူသင့်လှပါသည်ဟူ၍ အတန်တန်လျှောက်ထားကြသည်နှင့် နောင်အနာဂတ်သာသနာရေးကို မျှော်တွေးတော်မူပြီးလျှင် ဤစေတိယင်္ဂဏဝိနိစ္ဆယကျမ်းကို ရေးသားတော်မူလေသည်’*၁–ဟူ၍ဖြစ်ပါသည်။

သို့ပါသော် ဒွါရနိကာယ်သာသနဝံသဒီပနီကျမ်း၌မူ လယ်တီဆရာတော်ဘုရားကြီး၏ စေတိယင်္ဂဏဝိနိစ္ဆယကျမ်းနှင့်စပ်၍–

‘ဤအရိုးကျစေတိယင်္ဂဏကျမ်းလာ စကားအသွားအလာ အဆိုအမိန့်သည်လည်းကောင်း၊ သာသနဝိသောဓနီကျမ်းလာ စကားအဆိုအမိန့်သည်လည်းကောင်း လယ်တီဆရာတော်ဘုရားကြီး၏ စကားအသွားအလာ အသုံးအနှုန်းအဆိုအမိန့်နှင့် မတူ၊ ထိုအခါ လယ်တီဆရာတော်ဘုရားကြီးသည် စက္ခုအစုံကွယ်နေသဖြင့် လယ်တီဆရာတော်ကြီး ရေးသားအပ်သည်မဟုတ်တန်ရာ၊ တပည့်ရဟန်းလူထွက်များ ရေးသားအပ်သည်’ဟူ၍ ဝေဖန်သုံးသပ်ရေးသားထားလေသည်။*၂

## တေဘုမ္မာသီချင်းရေးဆရာ ဦးပြုံးချို

လယ်တီဆရာတော်ဘုရားကြီးသည် ရန်ကုန်မြို့ ပုဇွန်တောင်ရပ်၊ ညောင်ကုန်းမဟာလယ်တီစံကျောင်း၌သီတင်းသုံးနေတော်မူစဉ် ပညာ့အလင်းသတင်းစာတိုက်ပိုင်ရှင် ဒါယကာကြီးဦးတင်

*၁ လယ်တီဆရာတော်ကြီး၏ ဗုဒ္ဓဘာသာအရိုးကျစေတိယင်္ဂဏဝိနိစ္ဆယကျမ်း။ မင်္ဂလာတိုင်းစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၂–ခုနှစ်။ (စာမျက်နှာ–၁၊ ၂)။

*၂ သီရိသောဘနထေရ်အရှင်၏ သာသနဝံသဒီပနီ။ ၁၃၃၆–ခုနှစ်။ (စာမျက်နှာ–၄၄၈)။

နှင့်ဇနီး ဒါယိကာမကြီးဒေါ်ဆင့်တို့က ဆရာတော်ဘုရားကြီးအား မိမိတို့၏သတင်းစာတိုက်သို့ပင့်၍ ဆွမ်းကပ်လှူကြပါသည်။ ထိုဒါယိကာမကြီးဒေါ်ဆင့်မှာ ဆရာတော်ဘုရားကြီး၏တပည့်ရင်း သံခိပ်အသင်းသူ ကုမ္မာရီအသင်းဝင်ဖြစ်ပါသည်။ ထို့ပြင် ပညာ့အလင်းသတင်းစာတိုက်၌ ထိုအချိန်က လယ်တီဆရာတော်ဘုရားကြီး၏တပည့်ရင်းများဖြစ်ကြသော လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၊ ဆရာကြီးပီမိုးနင်း၊ ဆရာရွှေ–စသူတို့ဦးဆောင်၍လုပ်ကိုင်နေကြချိန်ဖြစ်ရာ ထိုနေ့က လယ်တီအသိုင်းအဝန်း စုံညီစွာလာရောက်ကြ၍ ဆရာတော်ဘုရားကြီးအားဦးခိုက်ကြလေသည်။

ဤသို့ ဆရာတော်ဘုရားကြီးအားဆွမ်းကပ်ပြီးသည့်နောက် အဘိဓမ္မာတရားစကားများကို ဆရာတော်ဘုရားကြီးကဟောကြားရာ၊ အယ်ဒီတာတစ်ဦးက ဓမ္မဂီတချိုး တေဘုမ္မာသီချင်းကို ထ,၍ရွတ်ဆိုပြလေသည်။ ထိုတေဘုမ္မာသီချင်းမှာ 'တေ ဘုမ္မာ၊ အနိစ္စာ ဒုက္ခာ အနတ္တာ၊ တရားမရလို့ များလှသံသရာ၊ ကာမောဃာ ဘဝေါဃာ ဒိဋ္ဌောဃာ စိတ်မောဟာ မကင်းတာ၊ အရင်းခံသူတဏှာ'–ဟူ၍ အဘိဓမ္မာသရုပ်များဖြင့် အစချီထားသော မော်ပြန်ယိုးဒယားတီးကွက် ဓမ္မဂီတယိုးဒယားသီချင်းကြီးဖြစ်ပါသည်။[*၁] ဆရာတော်ဘုရားသည် တေးသီချင်းစသည်ကိုနှစ်သက်တော်မူခြင်းမရှိသော်လည်း ယခုရွတ်ဆိုပြသော 'တေဘုမ္မာသီချင်း' ကိုကား အနှစ်သာရလည်းရှိ၊ အဓိပ္ပာယ်လည်းထိမိသောကြောင့် နှစ်သက်တော်မူလေရာ 'ဟဲ့–ဒီသီချင်း ဘယ်သူရေးတာလဲ' ဟူ၍ အမေးရှိတော်မူလေသည်။ ထိုအခါ 'ကျိုက်လတ်မြို့ကဦးပြုံးချို ရေးပါသည်ဘုရား' ဟု လျှောက်ထားလျှင် ဆရာတော်ဘုရားကြီးက ပညာ့အလင်းပိုင်ရှင် ဦးတင် ဒေါ်ဆင့်တို့အား 'ဟဲ့–ဒီလူကိုရအောင်ခေါ်ပြီး မင်းတို့သတင်းစာတိုက်မှာအသုံးပြုကြ၊ အဲဒီလိုစွယ်စုံတတ်တဲ့လူမျိုး တစ်သောင်းမှာ တစ်ယောက်မရှိဘူး' ဟု မိန့်တော်မူပါသည်။ မကြာမီပင် ဆရာတော်ဘုရားကြီး၏ အမိန့်တော်အတိုင်း ဆရာဦးပြုံးချိုသည် ရန်ကုန်မြို့ ပညာအလင်းသတင်းစာတိုက်တွင် အယ်ဒီတာဖြစ်ရလေသည်။[*၂]

## မန်လည်ဆရာတော်ကြီးနှင့်တွေ့ဆုံခြင်း

လယ်တီဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၈၁–ခုနှစ်၊ တပို့တွဲလပြည့်ကျော်လျှင် (အေဒီ–၁၉၂၀–ခုနှစ်၊ ဖေဖော်ဝါရီလ) မင်းလှမြို့ ဓမ္မာရုံစံကျောင်းသို့ဆိုက်ရောက်၍ သီတင်းသုံးနေတော်မူပါသည်။ ဤအကြိမ် မင်းလှမြို့သို့ဆိုက်ရောက်ရသည့်အကြောင်းမှာ အထက်မဲဇာ အညာဒေသမှ ကျမ်းတတ်အကျော် အဂ္ဂမဟာပဏ္ဍိတ မန်လည်ဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၈၁–ခုနှစ်၊ ပြာသိုလဆုတ် ၁၄–ရက် (အေဒီ–၁၇၊ ဇန်နဝါရီလ၊ ၁၉၂၀) တွင် နောက်ပါ

---

*၁ ဤသီချင်းကို မြန်စာပြန့်၏ မဟာဂီတဦးပြုံးချို စာပေနှင့်ကဗျာဂီတ။ နှလုံးလှစာပေ၊ ရန်ကုန်မြို့။ ၁၉၇၇–ခုနှစ်။ (စာမျက်နှာ ၁၄၈–၁၅၀)တွင်ကြည့်ပါ။

*၂ ဦးပြုံးချိုသည် သက္ကရာဇ်–၁၂၄၀ (အေဒီ–၁၈၇၈)ခုနှစ်ဖွား ကျိုက်လတ်ဇာတိဖြစ်၍ မဟာဂီတပေါင်းချုပ်ကြီး၊ နေဇော်လိမ်နည်းအမျိုးမျိုး–စသောစာအုပ်ရေးသား၍ ကျော်ကြားလှသည်။ စာပေကျွမ်းကျင်ရုံသာမက ပန်းချီပညာ၊ ပန်းပု၊ ပန်းပဲနှင့် စက်မှုအတတ်တို့၌လည်း ကျွမ်းကျင်သူစွယ်စုံရပုဂ္ဂိုလ်ဖြစ်သည်။ သက္ကရာဇ်–၁၂၈၉ (အေဒီ–၁၉၂၇)ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။ မောင်သုတ၏ စာဆိုတော်များအတ္ထုပ္ပတ္တိ။ ၂၀၀၂–ခုနှစ်။ (စာမျက်နှာ–၃၂၄–၃၂၇)။

ရဟန်း(၃၅)ပါး၊ မယ်သူတော်(၃၀)၊ လူပရိသတ်(၆၀)ကျော်တို့နှင့် ဇလွန် မြို့မသိမ်သမုတ်ရန် အောက်ပြည်အောက်ရွာသို့ ကြွတော်မူလာရာ ဟင်္သာတမြို့သို့ရောက်ရှိတော်မူလျှင် မန်လည် ဆရာတော်ဘုရားကြီးအား 'ထိုမှ မင်းလှမြို့သို့ကြွတော်မူပါ'ဟု လယ်တီဆရာတော်ဘုရားကြီးက ပင့်လျှောက်ထားသည့်အတွက် မင်းလှမြို့မှကြိုဆိုရန်အတွက် အသင့်သီတင်းသုံးနေတော်မူခြင်းပင် ဖြစ်သည်။

မန်လည်ဆရာတော်ဘုရားကြီးသည် မန်လည်ကျောင်းတော်မှ ဆည်ရွာ၊ ကန့်ဘလူ၊ စစ်ကိုင်း၊ ပခုက္ကူ၊ ရေနံချောင်း၊ သရက်၊ ပြည်၊ ဟင်္သာတ၊ ဇလွန်၊ ထိုမှ ဟင်္သာတ၊ ပုသိမ်၊ ထိုမှ ဟင်္သာတ စသည်ဖြင့် မြို့ရွာအသီးသီးသို့ကြွတော်မူလာရာ ဟင်္သာတမြို့သို့ သက္ကရာဇ် ၁၂၈၁–ခုနှစ်၊ တပို့တွဲလဆုတ် ၁၂–ရက် (အေဒီ–၁၅၊ ဖေဖော်ဝါရီလ၊ ၁၉၂၀)တွင် ရောက်ရှိတော်မူပါသည်။ ဟင်္သာတမြို့မှ အထူးမီးသင်္ဘောဖြင့်ထွက်ခွာတော်မူခဲ့ရာ သာရဝေါသို့ရောက်ရှိတော်မူပါသည်။ ထိုသာရဝေါမှ အထူးမီးရထားဖြင့် နေ့ ၂–ချက်တီးတွင်ထွက်ခွာတော်မူခဲ့ရာ သာယာဝတီနယ် မင်းလှမြို့သို့ ညနေ ၄–နာရီအချိန်တွင်ဆိုက်ရောက်တော်မူပါသည်။ မန်လည်ဆရာတော် ဘုရားကြီးအား မိတ္တကလျာဏအသင်းသား၊ မြို့သူကြီးဦးထွန်း၊ ဆရာကြီးဦးပြားတို့အမှူးပြု သော မြို့လူထုပရိသတ်အပေါင်းတို့က ကြိုဆိုကြပါသည်။*၁

၁၂၈၁–ခု၊ တပို့တွဲလဆုတ် ၁၂–ရက်နေ့ ညနေ ၅–နာရီအချိန် မင်းလှမြို့ လယ်တီဓမ္မာရုံ ကျောင်း၌ မန်လည်ဆရာတော်ဘုရားကြီးနှင့်လယ်တီဆရာတော်ဘုရားကြီးနှစ်ပါး တွေ့ဆုံတော် မူကြ၍ အာလာပသလ္လာပမိန့်ဟမ္ဘက်ကြားတော်မူကြပုံအကြောင်းကို လယ်တီတရားသတင်းစာ၌ မှတ်တမ်းတင်ထားပုံမှာ အောက်ပါအတိုင်းဖြစ်သည်။

> လယ်တီဆရာတော်ဘုရားကြီးသည် ညနေ ၅–နာရီ မီးရထားရောက်ချိန် နီးသောအခါ ဓမ္မာရုံမှ ကျေးဇူးရှင်ကြီးနှစ်ပါး နေလ၏အလား ထင်ထင်ရှားရှားကြီး တွေ့ဆုံတော်မူကြရန် ဆောက်၍ထားအပ်သော မဏ္ဍပ်တော်ကြီးသို့ ကြွတော်မူနှင့်၍ ပြင်ဆင်ခင်းကျင်း၍ထားသောနေရာက စောင့်နေကြိုတော်မူနှင့်၏။
>
> မီးရထားဆိုက်ရောက်၍ မြို့သူမြို့သားအပေါင်းတို့က မန်လည်ဆရာတော် ဘုရားအား မော်တော်ကားပန်းအစုံပေါ်တင်ပင့်၍ အရာမ်သံဃာဆရာတော်တို့အား ပန်းရထားနှင့်တင်ပြီးလျှင် မြို့ကိုလှည့်လည်၍အပူဇော်ခံရ၏။ ထိုအခါ လိုက်ပါလာသူ သစ်တောဝန်ထောက်နှင့်တကွ ပရိသတ်အားလုံးတို့သည် ကျေးဇူးရှင်လယ်တီ ဆရာတော်ဘုရားကြီးအား နှစ်ကြိမ်မြောက် ဖူးမြော်ကန်တော့ကြလေကြောင်း။
>
> ထိုနောက် မန်လည်ဆရာတော်ဘုရားကြီး ၎င်းမဏ္ဍပ်ကြီးသို့ကြွတော်မူလာလျှင် တပြိုင်နက် 'မန်လည်ဆရာတော်ဘုရားကြီးက ငါ့အား နီးနီးထားဖို့ရာ' အမိန့်ရှိသဖြင့် ထမ်းစင်ကို ဆရာတော်ဘုရားကြီးနှစ်ပါး နီးစွာသီတင်းသုံးမိလျှင် လက်တော်ဖြင့်

---

*၁ မန်လည်ဥဒါန်းသြဘာကဗျာကျမ်း။ ၁၉၈၅–ခုနှစ်။ (စာမျက်နှာ–၉၀)။

တစ်ပါးကိုတစ်ပါးကိုင်တော်မူလျက် ဝမ်းမြောက်တော်မူစွာ လယ်တီဆရာတော်ဘုရားကြီးက 'ရွှေဉာဏ်တော်ရှင် လက်တော်ပါလားဘုရား'ဟု လျှောက်ထားလျှင်၊ မန်လည်ဆရာတော်ဘုရားက 'ယခုမှတွေ့ရတော့သည်'ဟု အမိန့်ရှိ၏။

လယ်တီဆရာတော်ဘုရားကြီးက 'မှန်ပါတော့ တွေ့ကြုံရပါပြီ၊ ရွှေဉာဏ်တော်ရှင်၏လက်တော်များသည် ကြေည်လှပါသည်ဘုရား'ဟု လျှောက်၏။ မန်လည်ဆရာတော်ဘုရားကြီးက 'ဆရာတော်လက်သည် နူးညံ့၍နွေးနွေးရှိသည်။ ဆွမ်းများမြိန်တော်မူပါ၏လော'ဟုမိန့်တော်မူ၏။ လယ်တီဆရာတော်ဘုရားကြီးက– 'သင့်တော်ပါ၏ဘုရား၊ ရွှေဉာဏ်တော်ရှင်မှာလည်း အောက်ပြည်ကိုကြွတော်မူသည့်နေ့ကစ၍ သပ္ပါယမျှတော်မူ၍ ကျန်းမာချမ်းသာတော်မူပါစဘုရား'ဟု လျှောက်၏။ မန်လည်ဆရာတော်ဘုရားက– 'တစ်လခန့်ရှိပြီ၊ အောက်မြို့များသို့ရောက်ခါမှစ၍ နေထိုင်ကောင်း၏'ဟုအမိန့်ရှိ၏။

နောက်လက်တော်များကိုလွှတ်ပြီးလျှင် လယ်တီဆရာတော်ဘုရားကြီးက နောက်နားသို့ အနည်းငယ်ရွှေ့တော်မူလျက် မန်လည်ဆရာတော်ဘုရားကြီးအား သက်တော်ဝါတော်ကြီးတော်မူသည့်အတိုင်း သုံးကြိမ်ဦးညွှတ်တော်မူကြောင်း၊ ထိုအခါ မန်လည်ဆရာတော်ဘုရားကြီးက– 'အင်း–ဆရာတော်နှင့် ယခုမှတွေ့ရပေတော့သည်'ဟု မိန့်တော်မူလျှင် 'မှန်ပါဘုရား။ ရွှေဉာဏ်တော်ရှင်ဖြစ်သည့်အတိုင်း မေတ္တာထူးနှင့် ဆေးထူးဝါးထူးများ ချီးမြှောက်တော်မူလိမ့်မည်ဟု မျှော်လင့်ပါသည်'ဟု ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီးကလျှောက်ထားလျှင် လာရောက်ဖူးမြော်ကြသော ရဟန်းရှင်လူအပေါင်းတို့သည် ဆောက်တည်မရ သနားခြင်းမကသနားကြ၍ ဖြေဆည်မရ ဝမ်းနည်းကြခြင်းဖြစ်ကြလေကြောင်း၊ တဖန် လယ်တီဆရာတော်ဘုရားကြီးက 'လျှောက်စာများရှိပါသေးသည်'ဟု လျှောက်ပြီးလျှင် တပည့်ဖြစ်သူဦးကုသလအား အောက်တွင်ဖော်ပြပါရှိသောစာလွှာကိုဘတ်၍ လျှောက်ကြားပေကြောင်း။

## လယ်တီဆရာတော်ဘုရားကြီး၏လျှောက်ထားလွှာ

'အရှင်ဆရာတော်ဘုရားကြီး ဝမ်းမြောက်တော်မူရန် လျှောက်ချက်ပါဘုရား။ အကြောင်းမှာ တပည့်တော်လယ်တီ အသက်ထက်ဆုံး (၁) ဘုရားကိစ္စ၊ (၂) တရားကိစ္စ၊ (၃) သံဃကိစ္စ၊ (၄) သာသနကိစ္စ၊ (၅) နိုင်ငံမြို့ရွာကိစ္စများကို အားထုတ်ဆောင်ရွက်ကြောင်းပါဘုရား။

(၁) ဘုရားကိစ္စဆောင်ရွက်ပုံကား– မြန်မာသက္ကရာဇ် ၄၄–ခုနှစ်၊ တပို့တွဲလပြည့်နေ့[*၁] မှစ၍ ၎င်းသက္ကရာဇ် ၆၀–ပြည့်နှစ်[*၂]တိုင်အောင် တိုက်တွင်းရှိစေတီနှင့်

---

[*၁] သက္ကရာဇ် ၁၂၄၄–ခုနှစ်၊ တပို့တွဲလပြည့်နေ့ (အေဒီ–၂၂၊ ဖေန်နဝါရီလ၊ ၁၈၈၃–ခုနှစ်) ကိုဆိုလိုပါသည်။

[*၂] သက္ကရာဇ် ၁၂၆၀–ပြည့်နှစ် (အေဒီ–၁၈၉၈) ကိုဆိုလိုပါသည်။

မုံရွာမြို့ပေါ်ရှိ ရွှေစည်းခုံစေတီကြီးတို့၌ တံမြက်လှည်းခြင်း၊ ရေလှူခြင်းအစရှိသော စေတီယင်္ဂဏဝတ်တို့ကို အမြဲအားထုတ်ပြုလုပ်ခြင်းများပါဘုရား။

(၂) တရားကိစ္စကိုဆောင်ရွက်ပုံကား– ပရမတ္ထဒီပနီကျမ်း၊ နိရုတ္တိဒီပနီကျမ်း အစရှိသောဒီပနီကျမ်းပေါင်းတစ်ရာကျော်တို့ကို စီရင်ပြီးလျှင် မြန်မာနိုင်ငံတဝှမ်းလုံး၌ နှံ့ပြားစေခြင်း၊ မြန်မာသက္ကရာဇ် ၆၅–ခုနှစ်[*၁] မှစ၍ ၎င်းသက္ကရာဇ် ၇၈–ခုနှစ်[*၂] တိုင်အောင် တဆယ့်လေးနှစ်ကျော် ငါးနှစ်ခန့်မျှ အထက်မြန်မာနိုင်ငံ,အောက်မြန်မာနိုင်ငံ တဝှမ်းလုံးသို့ ကိုယ်တိုင်လှည့်လည်၍ တရားပွဲကြီးငယ်ပြုလုပ်ပြောဟောခြင်း၊ သင်္ဂြိုဟ်သံခိပ်၊ သဒ္ဒသံခိပ်၊ ပဋ္ဌာနသမုပ္ပါဒ်လင်္ကာတို့ကို စာပြန်ပွဲကြီးငယ်ပြုလုပ်ခြင်း၊ ပြင်သစ်နိုင်ငံ, အင်္ဂလန်နိုင်ငံ, အမေရိကန်နိုင်ငံရှိ ဗုဒ္ဓဘာသာအသင်းသားတို့ထံမှ လာရောက်သမျှသော ဗုဒ္ဓဘာသာအမေးပုစ္ဆာတို့ကို ရှင်းလင်းကြေလည်စွာ ဖြေဆိုခြင်းများပါဘုရား။

(၃) သံဃကိစ္စကိုဆောင်ရွက်ပုံကား– မြန်မာသက္ကရာဇ် ၄၄–ခုနှစ်၊ တပို့တွဲလပြည့်နေ့မှစ၍ ၎င်းသက္ကရာဇ်၆၀–ပြည့်နှစ်တိုင်အောင် ၁၆–နှစ်ကျော် ၁၇–နှစ်ခန့်မျှ ပိဋကပါတ်ဆွမ်းခံဝတ်ကြီးကို အမြဲဆောက်တည်ပြီးလျှင် မိမိတိုက်တွင်းရှိ သံဃာပရိသတ်တို့ကိုလုပ်ကျွေးခြင်း၊ သံဃာပရိသတ်တို့ကို နေ့ဝါညဝါ တွင်ကျယ်စွာပို့ခြင်း၊ တရားဟောလှည့်လည်စဉ်အခါ၌လည်း ရောက်ရာရောက်ရာ မြို့ရွာတို့၌ ဆွမ်းခံဝတ်ကြီးကို ဆောက်တည်ပြီးလျှင် မြို့ရွာပေါ်ရှိ တိုက်တာသံဃာတော်တို့ကို ဆွမ်းပစ္စည်းထောက်ပံ့လှူဒါန်းခြင်းများပါဘုရား။

(၄) သာသနကိစ္စကိုဆောင်ရွက်ပုံဆိုသည်မှာလည်း ပြဆိုခဲ့ပြီးသောဘုရားကိစ္စ၊ တရားကိစ္စ၊ သံဃကိစ္စများကိုပင် ဆိုလိုပါသည်ဘုရား။

(၅) နိုင်ငံမြို့ရွာကိစ္စများကိုဆောင်ရွက်ပုံကား– တရားဟောလှည့်လည်စဉ်အခါ ရောက်ရာရောက်ရာမြို့ရွာနယ်ပယ်တို့၌ ယစ်မျိုးသောက်စားမှုတို့ကို ကျွတ်လွတ်အောင်ဟောပြော၍ ကျွတ်လွတ်သူတို့ကို အန္တရာယ်ကင်းတံဆိပ်လက်ဖွဲ့ဆုပေးခြင်း၊ ကျွဲ–နွားသတ္တဝါတို့ကိုလည်း အသက် ဘေးမှချမ်းသာစေခြင်းငှာ ကျွဲသား နွားသား စားမှုတို့ကို ကျွတ်လွတ်အောင်ပြောဟော၍ ကျွတ်လွတ်သူတို့ကို အန္တရာယ်ကင်း တံဆိပ်လက်ဖွဲ့ဆုပေးခြင်း၊ ပလိပ်ကပ်ရောဂါ, တုပ်ကွေးကပ်ရောဂါစသော ကပ်ရောဂါများကျရောက်ဖြစ်ပွားရှိနေသော မြို့ရွာများကိုကြားသိရလျှင် သွားခွင့်သာကလျှင်မြန်စွာသွားရောက်၍ ၂–ရက် ၃–ရက်တွင်း ပျောက်ငြိမ်းချမ်းသာအောင်ပြုလုပ်ခြင်းများပါဘုရား။

*၁ သက္ကရာဇ် ၁၂၆၅–ခုနှစ် (အေဒီ–၁၉၀၃) ကိုဆိုလိုပါသည်။

*၂ သက္ကရာဇ် ၁၂၇၈–ခုနှစ် (အေဒီ–၁၉၁၆) ကိုဆိုလိုပါသည်။

ထိုမှတပါး ဘုရားကိစ္စ၊ တရားကိစ္စ စသည်တို့၌ ဆောင်ရွက်ရန်ကျန်ရှိသည်များကို ရွှေညာဏ်တော်ရှင် ထင်မြင်ချက်ရှိပါသေးလျှင် ဘယ်သင်းဘယ်ဟာ လိုသေးသည်ဟု အမိန့်တော်ရှိပါက ကျန်းမာပကတိရှိသည့်အခါ ဆောင်ရွက်ပါမည်ဖြစ်ပါကြောင်း၊ ကျန်းမာပကတိရှိရန်အတွက်မှာလည်း လောကဓမ္မ၌ စူးရှတော်မူသော ရွှေညာဏ်တော်ရှင် ဖြစ်တော်မူသည်နှင့်အညီ ဆေးထူးဝါးထူး မေတ္တာတော်ထူးများကို ချီးမြှောက်ပို့သတော်မူလိမ့်မည်ဟု ယုံကြည်အားကိုးခြင်း ရှိနေပါကြောင်း လျှောက်ကြားပါသည် ဆရာတော်ဘုရား။

အထူးလျှောက်ထားရန်အချက်မှာ၊ စာသင်သားအပေါင်းတို့အား သဒ္ဒါ တတ်နိုင်ရန် သဒ္ဒသံခိပ် ရှိပါပြီ။ သင်္ဂြိုဟ်တတ်နိုင်ရန် သင်္ဂြိုဟ်သံခိပ် ရှိပါပြီ။ ဝိနည်းတတ်နိုင်ရန် ဝိနယသံခိပ်ရှိပါပြီ။ ဆန်းအလင်္ကာတတ်နိုင်ရန် ဆန်းသံခိပ်၊ အလင်္ကာသံခိပ်လိုနေပါသည်၊*၁ ၎င်းသံခိပ်များကို ရွှေညာဏ်တော်ရှင် စီရင်တော်မူပါမည့်အကြောင်း တောင်းပန်ပါသည်ဘုရား။

လယ်တီ

မင်းလှမြို့၊ ဓမ္မာရုံကျောင်း၊

၁၂၈၁–ခု၊ တပို့တွဲလဆုတ် ၁၁–ရက်နေ့။*၂

မင်းလှမြို့၌ သုံးရက်ခန့် မဟာထေရ်မြတ်ကြီးနှစ်ပါးတို့ အတူတကွသီတင်းသုံးတော်မူကြပြီးနောက် သက္ကရာဇ်၁၂၈၁–ခုနှစ်၊ တပေါင်းလဆန်း ၁–ရက် (အေဒီ–၁၈၊ ဖေဖော်ဝါရီလ၊ ၁၉၂၀–ပြည့်နှစ်)တွင် နံနက်(၈)နာရီအချိန် မင်းလှမြို့မှ အထူးမီးရထားဖြင့် မန်လည်ဆရာတော်ဘုရားကြီး၊ လယ်တီဆရာတော်ဘုရားကြီးတို့နှစ်ပါးတို့ နောက်ပါရဟန်း, မယ်သူတော်, လူပရိသတ်(၂၂၀)ကျော်တို့ စတင်ထွက်ခွာလာရာ လက်ပံတန်းမြို့သို့ ဦးစွာဆိုက်ရောက်သည်။ လက်ပံတန်းမြို့တွင် ရာဇဝတ်ဝန်မင်းဦးမင်းထင်အစရှိသော လူကြီးလူကောင်းပရိသတ်အပေါင်းတို့က ဘူတာ၌ တူရိယာအဖုံဖုံ တီးမှုတ်စုံတို့ဖြင့်ပူဇော်ကန်တော့၍ မွန်မြတ်သောခဲဖွယ်ဘောဇဉ်တို့ကို လှူဒါန်းကျွေးမွေးကြပါသည်။ ဤနည်းတူ သာယာဝတီမြို့၊ သုံးဆယ်မြို့၊ ဥက္ကံမြို့၊ တိုက်ကြီးမြို့များ၌လည်း ကြိုဆိုပူဇော်ကန်တော့ကြလေသည်။ တိုက်ကြီးအရေးပိုင်ဦးမြတ်သာကျော်က မန်လည်ဆရာတော်

---

*၁ လယ်တီဆရာတော်ဘုရားကြီးသည် ဆန်းကျမ်းနှင့်စပ်၍ သက္ကတစာပေနိုင်နင်းတော်မူသော မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးအား ဆန်းဋီကာပြုစုရန်ကို လျှောက်ထားဖူးပါသည်။ သာသနဝိသောဓနီကျမ်း၊ တတိယတွဲ။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၂၂၉)။ မန်လည်ဆရာတော်ဘုရားကြီးသည် လယ်တီဆရာတော်ဘုရားကြီးလျှောက်ထားသည့်အတိုင်း ဆန်းသံခိပ်၊ အလင်္ကာသံခိပ်ရေးသားတော်မူရန်ပြင်နေစဉ် ပျံလွန်တော်မူကြောင်း– မန်လည်ဥဒါန်းသြဘာကဗျာကျမ်း။ ၁၉၈၅–ခုနှစ်။ (စာမျက်နှာ–၂၃)။

*၂ အေဒီ–၁၄၊ ဖေဖော်ဝါရီလ၊ ၁၉၂၀–ပြည့်နှစ်ဖြစ်ပါသည်။ လယ်တီတရားသတင်းစာ။ တတိယတွဲ၊ အမှတ်–၃၂။ ၁၂၈၀–ပြည့်၊ တပို့တွဲလ။ (စာမျက်နှာ ၃–၅)။

ဘုရားကြီးအား မိမိ၏သားရှင်ပြုအလှူအတွက် ပင့်ဖိတ်သေးသည်။ ထိုမှ အင်းစိန်၊ ကြို့ကုန်း၊ ကြည့်မြင်တိုင်တို့တွင်လည်း ဆီးကြိုပူဇော်ကြကာ အကျွေးအမွေးများဖြင့်လှူဒါန်းဧည့်ခံကြသည်။ နေလအလား ဆရာတော် ဘုရားကြီးနှစ်ပါးတို့ စီးနင်းလိုက်ပါလာသော အထူးမီးရထားတွဲကြီးသည် ရန်ကုန်မြို့ ကွမ်းခြံဘူတာကြီးသို့ ညနေ ၃–နာရီ ၂၀–မိနစ်အချိန် ဆိုက်ရောက်ပါသည်။ ဆိုက်ရောက်သည်နှင့် အမြောက် ၂၁–ချက်ပစ်ဖောက်ကန်တော့လျက် ကြိုဆိုကြပါသည်။ ရဟန်းရှင်လူ ပရိသတ်များစွာ မကြုံစဖူးအထူးတကဲကြိုဆိုကြလေသည်။

ဆရာတော်ဘုရားကြီးနှစ်ပါးတို့အား တရုတ်သူဌေးချန်ချောခိုင်(Chan Chor Khine)*၁ နှင့် အခြားသူဌေးတို့က အထူးစီမံပြင်ဆင်ထားသော မော်တော်ယာဉ်တို့ဖြင့်တင်ဆောင်ပြီး ရန်ကုန်မြို့ကို လှည့်လည်အပူဇော်ခံယူတော်မူကြသည်။ ထိုအပူဇော်ခံခရီးစဉ်မှာ ကွမ်းခြံဘူတာကြီးမှ ဆူးလေဘုရားလမ်းအတိုင်း၊ ထိုမှ ဒါလဟိုဇီလမ်း(ယခု–မဟာဗန္ဓုလလမ်း)၊ ထိုမှ ကီလီလမ်း(ယခု–ဝါးတန်းလမ်း)၊ ထိုမှ ကိုင်းတန်း၊ မော်တင်လမ်း၊ လှည်းတန်း၊ ဘုန်းကြီးလမ်း၊ ရွှေတောင်တန်း၊ လမ်းမတော်၊ စဥ့်အိုးတန်း၊ လတ္တာလမ်း(ယခု–လသာလမ်း)၊ ပေငါးဆယ်လမ်း(ယခု–မောင်ခိုင်လမ်း)၊ သိမ်ကြီးဈေးလမ်း(ယခု–ရွှေတိဂုံဘုရားလမ်း)၊ မောင်ဂိုမာရီလမ်း(ယခု–ဗိုလ်ချုပ်လမ်း)စသည် အစီအစဉ်အတိုင်းလှည့်လည်ကြကာ ပုဇွန်တောင် ရေကျော်ရပ် ညောင်ကုန်းကျောင်းတိုက်အတွင်း မွမ်းမံခြယ်လှယ်တင့်တယ်စွာ ခင်းကျင်းထားသော မဟာဓမ္မသာလာမဏ္ဍပ်ကြီးသို့ ဆရာတော်ဘုရားကြီးနှစ်ပါးနှင့် နောက်ပါပရိသတ်များနှင့်တကွ ဆိုက်ရောက်တော်မူလာကြသည်။ ရန်ကုန်မြို့ သမာဓိမြို့ဝန် မင်းတိုင်ပင်အမတ် ဦးဘိုးသာစသော လူကြီးလူကောင်းများက ဧည့်ခံကျွေးမွေးကြပါသည်။ ထို့နောက် ဓမ္မသဘင်ပွဲကြီးဆင်နွှဲကြရာ မန်လည်ဆရာတော်ဘုရားကြီးက ဒုက္ခသစ္စာစသော သစ္စာလေးပါး တရားတော်ကို ဟောကြားတော်မူခဲ့ပါသည်။*၂ ပြီးလျှင် မန်လည်ဆရာတော်ဘုရားကြီးသည် ပင့်လျှောက်ထားသူတို့အား သနားညှာတာတော်မူခြင်းအားဖြင့် အရှေ့တောရကြီးတိုက်၊ အလယ်တောရတိုက်၊ ရန်ကုန်မြို့ အနောက်ပိုင်းများသို့ကြွရောက်ကာ တရားဘာဝနာများဟောကြားတော်မူခဲ့ပါသည်။*၃

## ညောင်လေးပင်သို့

သက္ကရာဇ် ၁၂၈၁–ခုနှစ်၊ တပေါင်းလ (အေဒီ ၁၉၂၀–ပြည့်နှစ်၊ ဖေဖော်ဝါရီလ)တွင် လယ်တီဆရာတော်ဘုရားကြီးသည် ညောင်လေးပင်နှင့် လေးမိုင်ခန့်ဝေးကွာသော ဇီးကုန်းကြီးရွာမှ တိုက်သူကြီးဦးသက်၏တရားပွဲပင့်လျှောက်ထား၍ ဇီးကုန်းကြီးရွာသို့ကြွတော်မူပြီး တရားဟောကြားခဲ့ပါသည်။ ထို့နောက် ညောင်လေးပင်မြို့သို့ ရောက်ရှိတော်မူခဲ့ပါသည်။ ဆရာတော်ဘုရားကြီး

---

*၁ တရုတ်သူဌေးကြီး ချန်မာဖီး၏ သားဖြစ်သည်။ ချန်ချောခိုင်အကြောင်းကို Who's Who in Burma. 1927. Page-54 တွင်ကြည့်ပါ။

*၂ မန်လည်ဥဒါန်းသြဘာကဗျာကျမ်း။ ၁၉၈၅–ခုနှစ်။ (စာမျက်နှာ ၉၀–၉၄)။

*၃ လယ်တီပဏ္ဍိတ၏ မန်လည်မဟာထေရုပ္ပတ္တိကထာ။ ပညာ့အလင်းသတင်းစာတိုက်၊ ရန်ကုန်မြို့။ ၁၂၈၁–ခုနှစ်။ (စာမျက်နှာ–၂၁)။



ညောင်လေးပင်မြို့၌ လယ်တီဆရာတော်ကြီး အဘိဓမ္မာတရားဟောရာဌာန

ပရိယတ္တိဆောက။ ပရိယတ္တိဝိသာရဒ၊ ပိဋကတ္တယပါရဂူ၊
ဓမ္မုပဒေသ၊ နယဝေဗိတ်၊ ဗိဿိဋ္ဌဂုဏ်ထူးတို့ဖြင့်၊
ပြိုးကျုးအံ့ဩ၊ ခြောမခန်းရှု၊ ပေါက်ဖြ
စွယ်ရုံးမုန်သောက်ဓာနည်
ဖြစ်းတော်မူသော

လယ်တီဆရာတော်ဘုရားကြီး

သည်၊
အများဝေနေယ၊
ပေါယယ်ဟဿဂူ၊ ဇိုလ်လူခပင်းတို့
၏အကျိုးကို၊ မြော်ကိုးတည့်တွင်၍၊ စီရင်ရေးသား
တော်မူအပ်သော

မဟာစတ္တာရီသကသုတ်ပါဠိနိသျ၊

စာအုပ်ရှင်-ဒေါ်မိုးစွင်၊

သက္ကရာဇ်-၁၂၇၃-ခု၊ ထပို့တွဲလအတွင်း
ပုံနှိပ်၍ပြီးသည်။

ပုသိမ်မြို့။
ဇမ္ဗူ့မင်္ဂလာသတင်းစာပေါ်စက်ပုံနှိပ်တိုက်၊
ဦးစံဘော၊

ဓမ္မပါဝမဟာလတွင်၊ ဂုဏဗိဿိဋ္ဌ၊ ဒွန်ထိတ်ကြော်ညာ၊
သတင်းဖြာသော၊ မုံရွာမြို့

လယ်တီဆရာတော်ဘုရားကြီး

ရေးသားစီရင်တော်မူအပ်သော၊

ဗုဒ္ဓဘာသာ၊ ပြာဟ္မဏဘာသာ။

၂-ဘာသာရှင်းလင်းချက်ကြီး၊

နှင့်

ပရမတ္ထသဒ္ဒါနှင့်-ပညတ္တိသဒ္ဒါခွဲခကျာ်း။

ခရစ်ယန်ပုစ္ဆာအဖြေကျမ်း

တို့ကို၊ ထပေါင်းထည်းပုံနှိပ်လှုဒ်ဆောင်ထားပါသည်၊

စာအုပ်ရှင်-မင်းကတော်ကြီး—မမညွှန့်၊
မန္တလေးမြို့-ဈေးချို၊ ရထနာပုံစာအုပ်တိုက်ဆိုင်ကြီး၊

မန္တလေးမြို့၊ ခါးတန်း၊ ဂုဏဝတီစာပုံနှိပ်တိုက်၊
၁၂၇၁-ခု၊ ကဆုန်လ၊

သည် ညောင်လေးပင်မြို့၌ မြို့ပေါ်တွင်သီတင်းမသုံးဘဲ မြို့အနောက်ပိုင်း လယ်ကွင်းပြင်အနီး၌ သီတင်းသုံးတော်မူပါသည်။*၁ ဆရာတော်ဘုရားကြီးသီတင်းသုံးရာဌာနနှင့် မနီးမဝေးရှိ ရွာမရပ်၌ သဲပုံစေတီဘုရား*၂ ပွဲကျင်းပရာ ရပ်ရွာလူထုက ဦးဖူးညိုရုပ်သေးထည့်သွင်း၍ စည်စည်ကားကား ကျင်းပနေသည်။ ညအခါ ရုပ်သေးပွဲမှတီးမှုတ်သော ဆိုင်းသံစသည်တို့ကို ဆရာတော်ဘုရားကြီး ကြားတော်မူသောအခါ အနီးရှိဒကာအချို့အား 'ဆိုင်းသံတွေကြားနေရတယ် ဘာလုပ်ကြတာလဲကွယ့်'ဟု မိန့်တော်မူ၏။ ထိုအခါ ဒကာများက 'ဘုရားပွဲလုပ်ကြတာပါဘုရား'ဟု လျှောက်ထားကြသည်။

ဆရာတော်ဘုရားကြီးက 'မင်းတို့ကလဲကွယ် 'တစ်နှစ်တစ်ခါ၊ ငရဲရှာ၊ လူ့ရွာဘုရားပွဲ'- ဆိုသလိုဖြစ်နေကြပြီ၊ ဒီလိုလုပ်ကွယ်၊ အငြိမ့်တွေ၊ ဇာတ်တွေ၊ ရုပ်သေးတွေ မထည့်ကြနဲ့၊ ဘုရားပွဲမှာ အဲဒါတွေထည့်တော့ ကုသိုလ်မရတဲ့အပြင် အခြံအရံအကုသိုလ်တောင်ပွားသေးတယ်ကွယ့်၊ ဒါကြောင့် သဘင်ပွဲအစား တရားပွဲ ထည့်'ဟူ၍ မိန့်ကြားတော်မူပါသည်။

ထိုအခါ ဒကာကြီးများကလည်း 'ဆရာတော်ဘုရားကြီးမိန့်ကြားတော်မူသကဲ့သို့ တရားပွဲထည့်ပါက တရားဟောရန် ဓမ္မကထိကပင့်ရပါမည်ဘုရား၊ တပည့်တော်တို့ ဘယ်လိုဓမ္မကထိကမျိုး ပင့်ရမည်လဲဘုရား'ဟု မေးလျှောက်ရာ၊ ဆရာတော်ဘုရားကြီးက 'ငါလာဟောပေးမယ်'ဟူ၍ မိန့်တော်မူပြီး ထိုဘုရားပွဲ၌ သဘင်ပွဲအစား တရားပွဲကို စတင်၍ကျင်းပစေခဲ့ပါသည်၊ ထိုတရားပွဲတွင် ဆရာတော်ဘုရားကြီးက အဘိဓမ္မာတရားကိုသာ ဟောတော်မူပါသည်။ ရှေ့ဆက်လက်၍လည်း ဤဘုရားပွဲ၌ အဘိဓမ္မာတရားကိုသာ ဟောကြားကြရန် မိန့်မှာတော်မူခဲ့ပါသည်။*၃

## ကတွန်သို့

သက္ကရာဇ် ၁၂၈၂-ခုနှစ်၊ ဝါဆိုလ (အေဒီ ၁၉၂၀-ပြည့်နှစ်၊ ဇွန်လ)တွင် လယ်တီဆရာတော်ဘုရားကြီးသည် တရုတ်သူဌေးကြီးလင်ချင်းချောင်း၏ပင့်ဆောင်ချက်အရ မွန်ပြည်နယ် ရေးအခေါ် သထုံအပိုင် ဇင်းကျိုက်တောင်မြောက်ဘက် (ပေါင်မြို့နယ်အနီး) ကတွန်ရွာကလေး*၄ ရှိ မိုင်းအတွင်းသို့ ရောက်ရှိတော်မူခဲ့ပါသည်။ အကြောင်းမှာ ဓာတ်လုံးကိုအသုံးပြု၍ ထိုဓာတ်လုံးမှ

---

*၁ ထိုနေရာမှာ ညောင်လေးပင်မြို့အနောက်ပိုင်း တိုးချဲ့ရပ်ကွက်(၁)၊ ဘောဂလမ်းအတွင်း၌တည်ရှိသည်။

*၂ ထိုသဲပုံစေတီကို ယခုမြေစိုက်စေတီတည်ထား၍ 'ပြည်လုံးချမ်းသာစေတီ'ဟု ဘွဲ့သမုတ်ထားပါသည်။

*၃ ထိုဘုရားပွဲတွင် လယ်တီဆရာတော်ဘုရားကြီးပျံလွန်တော်မူသည့်နောက် လယ်တီဦးပဒုမ နှစ်စဉ် အဘိဓမ္မာတရားဟောပါသည်။ ဦးပဒုမ ကျန်းမာရေးမကောင်းသောအခါ ဦးပဒုမကိုယ်စား ၁၂၉၂-ခုနှစ်မှစ၍ ဦးဝိမလဘွဲ့မည်ရှိ ကိုယ်တော်လေး တစ်ပါး အဘိဓမ္မာတရားဟောပါသည်။ ထိုတရားပွဲသည် ဦးဝိမလ၏ ပထမဦးဆုံးတရားပွဲဖြစ်သည်။ ဦးဝိမလကိုယ်တော်သည် နောင်အခါ မိုးကုတ်ဆရာတော်ဘုရားကြီးဟုထင်ရှားကျော်ကြားခဲ့ပါသည်။ အရှင်ဃောသိတ၏ မိုးကုတ်ဆရာတော်ဘုရားကြီး၏ တစ်ဘဝသာသနာ။ သန်းထိုက်ရတနာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၉၈-ခုနှစ်။ (စာမျက်နှာ-၁၀၂၊ ၁၀၃)။ ဤဘုရားပွဲ၌ နောင်အခါ အဘိဓမ္မာတရားပွဲကျင်းပရန်ခဲ့ယဉ်းလာ၍ လယ်တီဆရာတော်ဘုရားကြီးအလိုတော်ကျ အဘိဓမ္မာတရားတော်ကိုပူဇော်သောအားဖြင့် အသံမစဲပဋ္ဌာန်းပွဲကိုသာ ပြုလုပ်ကျင်းပခဲ့ကြပါတော့သည်။

*၄ ယခု ကဒိုက်ရွာဟုအသိများကြသည်။



မွန်ပြည်နယ်၊ဘီလင်းမြို့အနီး ဇင်းကျိုက်တောင်မြောက်ဘက်ရှိ ကတွန်(ကဒိုက်)မိုင်းရွာခင်း



ဤမိုင်းအတွင်း လယ်တီဆရာတော်ကြီး ဝါကပ်သီတင်းသုံး၍
စက္ကူတော်ဝေဒနာကို ကုသခဲ့ရပါသည်။

ထွက်သောအငွေ့ဖြင့် ဆရာတော်ဘုရားကြီး၏စက္ခုတော်ကို ကုသကြရန်ဖြစ်သည်။ ထိုဓာတ်လုံးဆရာမှာ မွန်ပြည်နယ်အစပ် ရွာကလေးရွာ၌နေထိုင်ပြီး မိမိရပ်ရွာမှတပါး အခြားဌာနသို့သွားရောက်၍ ကုသမှုမပြုနိုင်သောကြောင့် ဆရာတော်ဘုရားကြီးအား ရန်ကုန်-မော်လမြိုင်ကားလမ်းမ၏အတွင်းဘက် ၆-မိုင်မျှကွာလှမ်းသော ကတွန်ရွာကလေးအတွင်းသို့ ပင့်ဆောင်ခဲ့ကြရခြင်းဖြစ်လေသည်။*၁

ဤ ကတွန်မိုင်းမှာ သံမျှားထုတ်လုပ်သော သူဌေးလင်ချင်းချောင်း၏မိုင်းဖြစ်သည်။ လုပ်သားရာပေါင်းများစွာရှိလေသည်။ စင်စစ် ကတွန်ရွာကလေးသည် အလုပ်သမားများစုပေါင်းနေသောရွာကလေးပင်ဖြစ်သည်။ လင်ချင်းချောင်းသည် ကတွန်မိုင်းအတွင်း မိမိနေထိုင်ရန် တိုက်အိမ်တစ်လုံး၊ ယမ်းစသောပစ္စည်းများထားသိုရန် တိုက်တစ်လုံး၊ အုတ်ရေကန်ကြီးတစ်ခုနှင့် အဆောက်အအုံများစွာ ဆောက်လုပ်ထားသည်။ မိမိနေထိုင်ရန်ဆောက်လုပ်ထားသော တိုက်အိမ်ကြီးပေါ်၌ လယ်တီဆရာတော်ဘုရားကြီးသီတင်းသုံးနေတော်မူရန် ပြင်ဆင်ထားရှိပါသည်။

**ပဋ္ဌပညာသမဝါကပ်တော်မူခြင်း**

လယ်တီဆရာတော်ဘုရားကြီးသည် သက္ကရာဇ်၁၂၈၂-ခုနှစ်၊ ဒုတိယဝါဆိုလ (အေဒီ ၁၉၂၀-ပြည့်နှစ်၊ ဇူလိုင်လ)တွင် သူဌေးလင်ချင်းချောင်း၏ပင့်ဆောင်ချက်အရ မွန်ပြည်နယ် ပေါင်မြို့နယ်အတွင်းရှိ ကတွန်မိုင်းအတွင်း မိမိ၏စက္ခုကို ဆေးကုသတော်မူရန်အခိုက်အခါ (၇၅)ကြိမ်မြောက်ပဋ္ဌပညာသမဝါကို ကပ်ဆိုတော်မူခဲ့ပါသည်။ ထိုစဉ်အခါ ဆရာတော်ဘုရားကြီးအား အနီးကပ်ပြုစုရန် သိမ်တောင်ဆည်ကြီးဆရာတော်ဦးဇဝန၊ ပျဉ်းမနား လယ်တီစံကျောင်း ဘုန်းကြီးကလေးဦးဥေယျတို့နှင့် နောက်ပါသံဃာအပါးနှစ်ဆယ်ကျော်ပါရှိခဲ့လေသည်။

**ပဉ္စတ်နှင့် ပရမတ်ခွဲခန်း**

သက္ကရာဇ်၁၂၈၂-ခုနှစ် ကတွန်မိုင်းအတွင်း သူဌေးလင်ချင်းချောင်းစံကျောင်းတိုက်ကြီးပေါ်၌ လယ်တီဆရာတော်ဘုရားကြီးဝါဆိုစဉ်အခါ နောက်တော်မှပါလာသော သိမ်တောင်ဆည်ကြီးဆရာတော်ဦးဇဝနအား လယ်တီဆရာတော်ဘုရားကြီးက-

'ငါ့ရှင် တပည့်ဇဝန၊ ပဉ္စတ်-ပရမတ်ခွဲခန်းကြီးများနှင့် လွန်စွာခက်ခဲနက်နဲ သိမ်မွေ့လှစွာသော အနုသယခုနစ်ပါးကို စာမသင်ဘူးကြကုန်သေးသော ရဟန်းရှင်၊ လူ၊ ရသေ့၊ လူသူတော်၊ သီလရှင်အပေါင်းတို့ကို ကောင်းမွန်သေချာစွာ နားလည်ကြစေရန် ဥပမာနှင့်တကွ ထင်ရှားစွာ ရေးသားဖော်ပြရမည်'-ဟု မိန့်ကြားမြွက်ဟတော်မူလေသည်။

သိမ်တောင်ဆည်ကြီးဆရာတော်ဦးဇဝနသည် လယ်တီဆရာတော်ဘုရားကြီး၏ မိန့်ကြားမြွက်ဟတော်မူချက်ကို ရိုသေလေးမြတ်စွာနာခံပြီးလျှင် လွန်စွာခက်ခဲနက်နဲ သိမ်မွေ့လှစွာသောအချက်ကြီးများကို ရေးသားစီရင်ရန် နေရာဌာနကိုရွေးချယ်သော

*၁ ဤအချက်များကို ဆရာကြီး လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ ပြောပြချက်ဖြစ်သည်။

အခါ ထိုစံကျောင်းတိုက်ကြီး၏အရှေ့တောင်အရပ်၌ တောင်ထွတ်တောင်မြတ်*၁ ၏ထိပ်ဝယ် စိတ်၏ကြည်လင်သန့်ရှင်းစင်ကြယ်ဖွယ်ရာဆောက်လုပ်ထားသော တိုက်ခံကျောင်းပေါ်သို့တက်ပြီးလျှင် မိမိစိတ်ကိုကောင်းစွာသုတ်သင်ရှင်းလင်း၍ ရတနာသုံးပါးဂုဏ်တော်အပေါင်းနှင့်တကွ ဆရာမိဘဂုဏ်အပေါင်းကို ကောင်းမွန်စွာနှလုံးသွင်းပွားများ၍ ရှိခိုးပူဇော်အပ်သောပုဂ္ဂိုလ်အပေါင်းကို ရိုသေလေးမြတ်စွာ ရှိခိုးပူဇော်ကန်တော့ပြီးလျှင် ကမ္ဘာပေါ်၌ သမ္မာဒိဋ္ဌိဝိဇ္ဇာဉာဏ်အလင်းမပေါက်ကြကုန်သေးသော အန္ဓပုထုဇဉ်ပုဂ္ဂိုလ်အပေါင်းတို့အား သမ္မာဒိဋ္ဌိဝိဇ္ဇာဉာဏ်အလင်းပေါက်ကြစေခြင်းအကျိုးငှာ ရည်သန်၍ ဖြူစင်ဖြောင့်မတ်တည်ကြည်သောသမာဓိတရားကိုရှေ့သွားမူ၍ ပညတ်–ပရမတ်ခွဲခန်းကြီးများနှင့်တကွ အနုသယခုနစ်ပါးကို လက်ဝါးပေါ်တွင်ထင်ရှားစွာတင်၍ထားသော စိန်,ကျောက်,ပတ္တမြားရတနာကဲ့သို့ ရှင်းလင်းစွာရေးသားခဲ့ပါသည်။

ဆရာတော်ဦးဇဝနရေးသောကျမ်းသည် အန္ဓပဝေဏီ သူကန်းတန်းကြီးအဖြစ်မှလည်းကောင်း၊ အန္ဓပုထုဇဉ်အဖြစ်မှလည်းကောင်း ကျွတ်လွတ်ထွက်မြောက်၍ ကလျာဏပုထုဇဉ်အဖြစ် အလင်းဓာတ်ဝိဇ္ဇာဉာဏ်ကြီးကိုပေးစွမ်းနိုင်သောကျမ်းမြတ်ဖြစ်သောကြောင့် 'အရိယာဝိဇ္ဇာမဂ္ဂအလင်းပြကျမ်း' ဟူ၍ခေါ်ဆိုထားပေသည်။

ထိုကျမ်းကို ကောင်းမွန်စွာရေးသားပြီးသောအခါ သူဌေးလင်ချင်းချောင်း၏စံကျောင်းတိုက်ကြီးပေါ်တွင် လယ်တီဆရာတော်ဘုရားကြီးလက်တော်သို့ ဆက်ကပ်သောအခါ ဆရာတော်ဘုရားကြီးက 'ဖတ်ပြရမည်' ဟုအမိန့်တော်ရှိသည့်အတိုင်း သဒ္ဓိဝိဟာရိကတပည့်ရင်းဖြစ်ပေသော ဦးဧယျကိုယ်တော်က ဖတ်ပြရပေသည်။*၂

**မဟာစတ္တာရီသကသုတ်နိဿယ**

လယ်တီဆရာတော်ဘုရားကြီးသည် ကတွန်မိုင်းအတွင်း ဝါကပ်ဆိုတော်မူနေစဉ်အတွင်း မုံရွာမြို့နေ တပည့်ဖြစ်သူ အမိန့်တော်ရဦးစံလင်းနှင့် ဗုဒ္ဓဘာသာကလျာဏယုဝအသင်းသားများ၏ ရိုသေညွတ်တွားလျှောက်ထားတောင်းပန်ချက်အရ မဇ္ဈိမနိကာယ်၊ ဥပရိပဏ္ဏာသပါဠိတော်လာ မဟာစတ္တာရီသကသုတ်ပါဠိတော်ကို မြန်မာဘာသာနိဿယပြန်ဆို၍ ပြီးလျှင် ထိုနိဿယစာကို ကတွန်စာတိုက်မှနေ၍ မုံရွာသို့ပေးပို့တော်မူခဲ့ပါသည်။*၃

**သထုံမြို့ရဟန်းတော်များ ပါရာဇိကကျသည်ဆိုခြင်း**

လယ်တီဆရာတော်ဘုရားကြီး ကတွန်မိုင်းအတွင်း ဝါကပ်သီတင်းသုံးနေတော်မူစဉ် 'သထုံမြို့ပေါ်စာသင်တိုက်များရှိ ရဟန်းတော်များ ပါရာဇိကကျသည်' ဟု အစွပ်စွဲခံတော်မူရသောအရေး

---

*၁ နန်းမွန်လင်းတောင်စွယ်ကိုဆိုလိုသည်။

*၂ သိမ်တောင်ဆည်ကြီးဆရာတော်ဦးဇဝန၏ အရိယာဝိဇ္ဇာမဂ္ဂအလင်းပြကျမ်း။ ၁၉၅၅–ခုနှစ်။ (စာမျက်နှာ ၁–၅)။

*၃ လယ်တီဆရာတော်ကြီး၏ မဟာစတ္တာရီသကသုတ်ပါဠိနိဿယ။ ဇမ္ဗူမင်္ဂလာသတင်းစာတိုက်၊ ပုသိမ်မြို့။ ? –ခုနှစ်။



သထုံမြို့၊ ရွှေစာရံစေတီတော်ကြီး



သထုံမြို့၊ ရန်အောင်မြင်ကျောင်း
ရစ်ကန်ကြီးဆရာတော်ဦးဝိမလ



လယ်တီဦးဝဏ္ဏိတကိုယ်တော်တရားဟောရာ သထုံမြို့၊ရွှေစာရံဘုရားဝင်းအတွင်းရှိ မှန်စီဝတ်ကျောင်းတော်ကြီး

ကိစ္စတစ်ရပ်ဖြစ်ပေါ်ခဲ့လေသည်။ ဖြစ်ပေါ်ပုံမှာ–သထုံမြို့တွင် တပ်ကလပ်(ခေါ်) စာအုပ်အငှား အသင်းတစ်ခု ရှိသည်။ သထုံမြို့ပေါ်ရှိကျောင်းတိုက်အသီးသီးမှ သံဃာတော်အရှင်မြတ်များက မိမိတို့ကြည့်ရှု လိုသောစာအုပ်များကို ထိုအသင်းမှလက်မှတ်ထိုးထုတ်ယူပြီး ကြည့်ရှုလေ့ရှိပါသည်။ အချို့သောသံဃာတော်တို့သည် စာအုပ်ငှားပြီးလျှင် ပြန်မသွင်းဘဲ ကာလကြာရှည်စွာယူထား ကြည့်ရှုတော်မူခဲ့ကြပါသည်။

ထိုအခါ အသင်းလူကြီးများက သံဃာတော်များစာအုပ်ငှားယူပြီး ပြန်မပို့သည့်အတွက် ထိုငှားပြီးစာအုပ်များ ပြန်သွင်းကြစေရန်ရည်ရွယ်၍ သထုံမြို့လယ် ရွှေစာရံဘုရားဝင်းအတွင်းရှိ မှန်စီဝတ်၌ တရားပွဲကျင်းပနေသော ကျိုက်ပိုင်းဦးက္လန္တကကိုယ်တော်ထံလျှောက်ထားကြလေသည်။ ကျိုက်ပိုင်းဦးက္လန္တကကိုယ်တော်မှာ ရန်ကုန်မြို့ သမိုင်း ကျိုက်ပိုင်းစေတီတော်အနောက်မျက်နှာ၌ ကျောင်းထိုင်သီတင်းသုံးတော်မူသောကြောင့် ထိုခေတ်က ဓမ္မကထိကအကျော် ကျိုက်ပိုင်း ဆရာတော်ဟု တွင်ခြင်းဖြစ်သည်။

ဦးက္လန္တကသည် တရားပွဲတွင် 'သထုံမြို့ကကိုယ်တော်တွေ တပ်ကလပ်မှစာအုပ်များငှားပြီး ပြန်မသွင်းကြဘဲ အပိုင်ယူထားခြင်းကြောင့် အဒိန္နဒါနံပါရာဇိကသိက္ခာပုဒ်ကြီးနှင့်ငြိစွန်းနေသည်' စသည်ဖြင့် ထည့်သွင်းဟောပြောလေသည်။ တရားနာပရိသတ်အပေါင်းမှာလည်း ဦးက္လန္တက၏ စကားကြောင့် အချင်းချင်းဝေဖန်ပြောကြားကာ ထိုသတင်းမှာတစ်မြို့လုံးသို့ပြန့်လွင့်သွားသည်။ မြို့တွင်းရှိ ကျောင်းအသီးသီးမှ ရဟန်းတော်များမှာလည်း မြို့ထဲသို့ ဆွမ်းခံပင်မထွက်ဝံ့အောင် ဖြစ်ခဲ့ကြသည်။ ထိုကိစ္စကိုရှင်းလင်းစေရန်အတွက် သထုံမြို့ရှိ ရဟန်းတော်များစုဝေးတော် မူကြပြီးနောက် 'ဤပြဿနာကား လွယ်လွယ်ကူကူနှင့်ရှင်းလင်းနိုင်မည့်ပြဿနာမဟုတ်၊ သို့ဖြစ်၍ သထုံမြို့ပေါ်၌ သက်တော်ဝါတော်အကြီးဆုံးမဟာထေရ်ကြီးဖြစ်သော ရစ်ကန်ကြီးဆရာတော် ဦးဝိမလ*၁ ထံတော်သို့ လျှောက်ထားမှသင့်မည်'ဟုတိုင်ပင်ကြလျက် သထုံမြို့ ရန်အောင်ကျောင်း တိုက်၌ သီတင်းသုံးနေတော်မူသော ရစ်ကန်ကြီးဆရာတော်ကြီးအား ဦးတိုက်လျှောက်ထား တော်မူကြ၏။

ရစ်ကန်ကြီးဆရာတော်က 'အေးကွဲ့–မောင်ပဉ္စင်းတို့၊ တို့ကတော့ စာချဘုန်းကြီးများဖြစ်လို့ စာနဲ့ပေနဲ့တော့ ပြန်ပြောနိုင်ပါရဲ့၊ သို့သော် မောင်က္လန္တကသည် တရားဟောဓမ္မကထိကပုဂ္ဂိုလ် ဖြစ်နေတဲ့အတွက် သူ့လိုတရားအဟောကောင်းသူတစ်ဦးက ယှဉ်ပြိုင်ပြီးတရားပွဲပြုလုပ်ရှင်းလင်းမှ တော်မယ်'ဟု မိန့်တော်မူပြီးလျှင် တရားအဟောကောင်းသူပုဂ္ဂိုလ်တစ်ဦးကို တောင်းခံရန်အတွက် ကတွန်မိုင်းအတွင်း ဝါကပ်တော်မူနေသည့် လယ်တီဆရာတော်ဘုရားကြီးခြေတော်ရင်းသို့ ရောက်ရှိ လာကြသည်။

---

*၁ ရစ်ကန်ကြီးဆရာတော် ဦးဝိမလသည် သက္ကရာဇ် ၁၂၂၉–ခုဖွား၊ မြင်းခြံခရိုင်၊ နွားထိုးကြီးရွာဇာတိဖြစ်သည်။ သီပေါမင်း၏ အစ်မတော် ပခန်းကြီးမြို့စား တပင်တိုင်မင်းသမီးကြီး၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းအဖြစ်သို့ရောက်သည်။ မန္တလေးမြို့ ဒက္ခိဏာရာမဘုရားကြီးတိုက်၊ မိုးကောင်းတိုက်တို့၌ ပညာဆည်းပူးခဲ့ရသည်။ ပဲခူးခရိုင် ရစ်ကန်ကြီးရွာ၌ ကြာရှည်စွာ သီတင်းသုံးသဖြင့် ရစ်ကန်ကြီးဆရာတော်တွင်သည်။ သထုံရန်အောင်ကျောင်းတွင်လည်း သီတင်းသုံးသည်။ အရှင်ကေလာသ၏ မန္တလေးသာသနာဝင်၊ ဒုတိယတွဲ။ ၁၉၈၂–ခုနှစ်။ (စာမျက်နှာ ၄၁၉–၄၂၇)။

ရစ်ကန်ကြီးဆရာတော်သည် နောက်ပါသံဃာ ၃၀–ကျော်နှင့် မိုင်းထဲသို့ရောက်လာပြီး 'အရှင်ဘုရား ကယ်တော်မူပါဘုရား၊ တပည့်တော်တို့ကို ပါရာဇိကကျနေတယ်လို့ မောင်ကုလ္လန္တက က စွဲနေပါတယ်'ဟုလျှောက်ထားရာတွင် ဆရာတော်ဘုရားကြီးက– 'ဆရာတို့က သူစွဲတဲ့အတိုင်း ဟုတ်နေသလား'ဟု အမေးရှိတော်မူပါ၏။

ရစ်ကန်ဆရာတော်ကြီးက တပ်ကလပ်ကစာအုပ်များကို ကြည့်ရှု၍မကုန်သေးသဖြင့် ပြန်မသွင်းဘဲထားရကြောင်းနှင့် ကိုယ်တော်လေးများ ဆွမ်းခံမဝံ့အောင်ဖြစ်နေရကြောင်းတို့ကို လျှောက်ထားပြီး သထုံမြို့လူထု ရှင်းလင်းစွာသိကြားအောင် တရားပွဲပြုလုပ်ရှင်းလင်းပေးပါရန် လျှောက်ထားသောအခါ ဆရာတော်ဘုရားကြီးက 'တပည့်တော်မှာ တပည့်သံဃာ ၂၅–ပါး တော့ပါခဲ့ပါရဲ့၊ သို့သော် မောင်ကုလ္လန္တကနှင့်တရားဖက်ဟောရန်ပုဂ္ဂိုလ်ဟူ၍ မပါခဲ့ပါ၊ ထိုပုဂ္ဂိုလ်မှာ မန္တလေးလယ်တီစံကျောင်း၌ ကျန်ခဲ့လေရဲ့'ဟု အမိန့်ရှိတော်မူပါသည်။

ထိုအခါ ရစ်ကန်ဆရာတော်ကြီးက 'ပင့်ပါဘုရား၊ တပည့်တော်များတာဝန်ရှိပါစေဘုရား' ဟုလျှောက်ထားသဖြင့် သူဌေးလင်ချင်းချောင်းအား ဆရာတော်ဘုရားကြီးက 'မန္တလေးမြို့ ရတနာသီရိကျောင်းနေ မောင်ဝဏ္ဏိတ အမြန်လာရမည်'ဟု ကြေးနန်းရိုက်စေ၏။ ထိုကြေးနန်း မန္တလေးမြို့လယ်တီစံကျောင်းသို့ရောက်သောအခါ ဦးဝဏ္ဏိတက သီတင်းသုံးဖော်များအားပြသပြီး 'သံကြိုးစာက အလွန်ထူးခြားသည်၊ ဆရာတော်ဘုရားကြီး မကျန်းမမာဖြစ်နေသလားမသိ၊ မည်သည့် အကျိုးအကြောင်းမှလည်းမပါ။ မြန်မြန်လိုက်သွားမှတော်မည်'ဟုပြောကြားပြီး အမြန်ဆုံး ဆင်းလာရာ သထုံမြို့ ဘူတာရုံသို့ရောက်လျှင် သူဌေးလင်ချင်းချောင်းကိုယ်တိုင် ကားကြီးနှင့် လာ၍ကြိုဆိုနေလေသည်။

လယ်တီဆရာတော်ဘုရားကြီး၏ရှေ့တော်သို့ရောက်ရှိကြသောအခါ 'မောင်ဝဏ္ဏိတ ရောက်ပြီ လားကွဲ့၊ အေး–မင်းဒီမှာဝါဆိုရမကွဲ့၊ မင်းကို ရစ်ကန်ကြီးကစောင့်နေတယ်'ဟူ၍ အကြောင်းစုံကို အမိန့်ရှိတော်မူပြီး ဦးဝဏ္ဏိတအား ရစ်ကန်ကြီးဆရာတော်ထံသို့ပို့စေ၏။

ရစ်ကန်ကြီးဆရာတော်ကကြိုးမှူးပြီး ဦးဝဏ္ဏိတအတွက် တရားပွဲကို သထုံမြို့ ရွှေစာရံဘုရား ဝင်းအတွင်း၌ ကျင်းပရန်စီစဉ်သောအခါ ဘုရားလူကြီးများက မုန်စီဝတ်အတွင်းကို ဦးကုလ္လန္တက၏ တရားပွဲအတွက်သတ်မှတ်ထားပြီးဖြစ်သဖြင့် ဦးဝဏ္ဏိတမှာ ဘုရားဝင်းအတွင်းရှိ ညောင်ပင်ကြီး အောက်၌သာ တရားဟောခွင့်ရရှိခဲ့လေသည်။ ထိုအခါ ဦးဝဏ္ဏိတက 'နေရာကအကြောင်းမဟုတ်၊ တရားဟောဖို့ကသာလိုရင်းဖြစ်သည်'ဟုမိန့်ကြားပြီးလျှင် ညောင်ပင်ကြီးအောက်မှာပင် တရားပွဲ ပြုလုပ်ရန် နေရာရှင်းလင်းကြရသည်။

တရားပွဲကျင်းပမည့်နေ့သို့ရောက်သော် 'လယ်တီဆရာတော်ဘုရားကြီး၏တပည့် ဓမ္မကထိက ဦးဝဏ္ဏိတအရှင်သူမြတ်က တရားပွဲကြီးဟောပြောမည်'ဟုကြေညာထားသည့်အတွက် တရားနာ လာကြသောပရိသတ်များမှာ နေရာနှင့်မဆန့်သည့်အတွက် အခြားကျယ်ဝန်းသောနေရာသို့ပြောင်း ရွှေ့ကြရလေသည်။ မြို့တွင်းရှိရဟန်းတော်များကလည်း မိမိတို့ကိုယ်စားလှယ်ကြီးဦးဝဏ္ဏိတ၏ တရားပွဲသို့ အထူးကြွရောက်တော်မူကြသဖြင့် ရဟန်းပရိသတ်,လူပရိသတ်တို့ဖြင့် စည်ကား

သိုက်မြိုက်နေသည်။ တရားပွဲစတင်သည်နှင့် ဦးဝဏ္ဏိတက 'အချို့သောပုဂ္ဂိုလ်များက သထုံမြို့မှာရှိတဲ့ရဟန်းသံဃာတော် အရှင်မြတ်များသည် ဒုတိယသိက္ခာပုဒ်နှင့်ငြိနေတယ်လို့ စွပ်စွဲကြတယ်လို့ ကြားရပါတယ်။ ဒါဟာ ဆဲရေးတာပါပဲ။ စာအုပ်ငှားတယ်, ထုတ်တယ်ဆိုတာ တိတ်တဆိတ်ယူတာမှမဟုတ်ဘဲ။ ငှားရမ်းသူက လက်မှတ်ထိုးပြီးထုတ်ယူတာဖြစ်လို့ ခိုးခြင်းမဟုတ်ဘူး။ ဖတ်၍မကုန်၍သာ ပြန်မသွင်းဘဲထားခြင်းဖြစ်တယ်။ အကယ်၍ပျက်စီးခဲ့လျှင် ဘဏ္ဍာစားပေးပါကရတာဘဲ'စသည်ဖြင့် ရှင်းလင်းပြတော်မူရာ တရားနာပရိသတ်အပေါင်းမှာ ကျေနပ်အားရရှိကြလေသည်။ထိုအခါမှ ဦးဝဏ္ဏိတကဆက်၍ လယ်တီဆရာတော်ဘုရားကြီး၏နည်းအတိုင်း ခန္ဓာငါးပါးတရားတော်ကြီးကို ဝါတွင်းကာလပတ်လုံး အကျယ်တဝင့်ဟောတော်မူရာ ကျက်တရားမျိုးမဟုတ်ဘဲ အဟောသက်သက်တရားဖြစ်သဖြင့် နာကြားသူအပေါင်းမှာ ဝမ္မပီတိဖြစ်ကြလျက် အထူးကျေနပ်အားရခဲ့ကြလေသည်။

ထိုသို့ တရားပွဲများကျင်းပနေစဉ်အတွင်း ဦးဝဏ္ဏိတသည် လယ်တီဆရာတော်ဘုရားကြီး ထံတော်သို့ ဦးတိုက်လေရာ ဆရာတော်ဘုရားကြီးက– 'မောင်ဝဏ္ဏိတ–ဘယ်နှယ့်တုန်းကွဲ့၊ အောင်မြင်ရဲ့လား'ဟူ၍ မေးတော်မူပါသည်။ ဦးဝဏ္ဏိတက အလုံးစုံပြီးပြည့်စုံ၍ ရှင်းလင်း အောင်မြင်ကြောင်းလျှောက်ထားလျှင် 'မင်းတရားဟောသည့်အချိန်အခါမှာ ငါက ဘုရားရှိခိုးပြီး သထုံမြို့သထုံနယ်တို့တွင်စောင့်ရှောက်နေကြကုန်သောနတ်အပေါင်းတို့အား မေတ္တာပို့နေတာကွဲ့' ဟု အမိန့်ရှိတော်မူပါသည်။*၁

**ဦးရွှေဂိုလာရောက်ပင့်ခြင်း**

သက္ကရာဇ် ၁၂၈၂–ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် ၁–ရက် (အေဒီ–၂၈၊ အောက်တိုဘာလ၊ ၁၉၂၀–ပြည့်နှစ်)တွင် မော်လမြိုင်မြို့ ဒါယကာကြီးဦးရွှေဂိုသည် ဆရာတော်ဘုရားကြီးအား မော်လမြိုင်မြို့၌တရားပွဲချီးမြှင့်ပေးသနားပါရန်ပန်ကြားလျှောက်ထားရာ ဆရာတော်ဘုရားကြီးက 'ငါ မကျန်းမမာလှဘူးကွဲ့၊ လာနိုင်မယ်မထင်ဘူးမောင်ရွှေဂို'ဟုအမိန့်ရှိ၍ ငြင်းပယ်တော်မူခဲ့ပါသည်။ ဦးရွှေဂိုက တဖန် ဆရာတော်ဘုရားကြီး၏တပည့်များထံချဉ်းကပ်၍ လျှောက်ထားပြန်ရာ တပည့်ကြီးများက 'ဆရာတော်ကြီးကို ဦးဝဏ္ဏိတတော့လျှောက်ထားဝံ့မည်၊ သူ့ကိုပြောပါ'ဟု အကြံပေးသည့်အတွက် ဦးဝဏ္ဏိတထံလျှောက်ထားသောအခါ ဦးဝဏ္ဏိတက ဆရာတော်ဘုရားကြီးအား တဖန်လျှောက်ထားပြန်လေသည်။

ဦးဝဏ္ဏိတသည် မော်လမြိုင်မြို့အပါအဝင် အောက်ပြည်အောက်မြို့တို့ကိုအစုံအလင်မရောက်ဖူးသေးသည့်အတွက် ဆရာတော်ဘုရားကြီးက 'မောင်ဝဏ္ဏိတက မော်လမြိုင်မရောက်ဖူးသေးဘူးကိုးကွဲ့၊ မော်လမြိုင်ဆိုတာ သာသနာရေးအတွက် အလွန်အားထားရတဲ့မြို့ဖြစ်တယ်ကွဲ့၊ သူတို့မြို့ကပုံနှိပ်တိုက်များကနေ ဒို့ရဲ့ကျမ်းတွေကိုရိုက်ထုတ်ခဲ့တာဖြစ်တယ်။ မောင်ဝဏ္ဏိတကို မော်လမြိုင်မြို့နဲ့မိတ်ဆက်ပေးရဦးမည်'ဟု မိန့်တော်မူပြီး မော်လမြိုင်သို့ကြွရန် ပြင်ဆင်ခွင့်ပြုတော်မူခဲ့ပါသည်။

---

*၁ ဤအချက်များမှာ ဆရာကြီးဦးလှတင်(ဦးဝဏ္ဏိတ) မိန့်ကြားချက်ဖြစ်ပါသည်။

ဓညဝတီပုစ္ဆာရှစ်ချက်

လယ်တီဆရာတော်ဘုရားကြီးသည် သထုံအပိုင် ကတွန်မိုင်းအတွင်း၌ သီတင်းသုံးနေတော်မူစဉ် သက္ကရာဇ်၁၂၈၂–ခုနှစ်၊ သီတင်းကျွတ်လဆုတ် ၁၀–ရက် (အေဒီ–၆၊ နိုဝင်ဘာလ၊ ၁၉၂၀–ပြည့်နှစ်)တွင် ဓညဝတီရခိုင်ဌာနီမှ သံဃာတော်များက ဝိနည်းဆိုင်ရာအမေးပုစ္ဆာရှစ်ချက်ကို မေးလျှောက်ကြရာ အောက်ပါအတိုင်းဖြေကြားတော်မူခဲ့ပါသည်။

၁။ ပထမအမေး။ ။ရဟန်းတို့၏ဥစ္စာဖြစ်သောကျောင်းပစ္စည်းများကို ခိုးသူတို့ခိုးယူရာ၌ ဥစ္စာရှင်ဖြစ်သောရဟန်းမူကား အစိုးရတရားသူကြီးများထံ တရားစွဲဆိုခြင်းကိုမပြု၊ ၎င်းရဟန်းအား အမြဲကိုးကွယ်နေသူ လှူဒါယကာတို့ကသာ တရားစွဲဆိုခြင်းကိုပြုသည့်အတွက် အစိုးရတရားသူကြီးများသည် ၎င်းခိုးသူအား အမှုအားလျော်စွာ ရာဇဒဏ်ကိုပေးအံ့၊ ဥစ္စာရှင်ဖြစ်သောရဟန်းအား အာပတ်မှလွတ်ကင်းပါမည်လော?။

အဖြေကား။ ။ရဟန်းအားအမြဲကိုးကွယ်နေသူ လှူဒါယကာတို့ကသာ တရားစွဲဆိုရာ၌ (၁) ပစ္စည်းရှင်ရဟန်းတော်၏စေခိုင်းခြင်းပယောဂနှင့်လွတ်ကင်း၍ လှူဒါယကာတို့ကအလိုအလျောက်စွဲဆိုခြင်းတပါး၊ (၂) ပစ္စည်းရှင်ရဟန်းတော်က သင်တို့တရားစွဲကြကုန်လော? ဟု တိုက်တွန်း၍ လှူဒါယကာတို့စွဲဆိုခြင်းတပါး–ဟူ၍ နှစ်ပါးရှိ၏။ ထိုတွင် (၁) လှူဒါယကာတို့ အလိုအလျောက် တရားစွဲဆိုရာ၌ လှူဒါယကာတို့က တရားစွဲဆိုခြင်းကိုပြုသည့်အတွက် အစိုးရတရားသူကြီးများက ၎င်းခိုးသူအား အမှုအားလျော်စွာ ရာဇဒဏ်ကိုပေးသော်လည်း ပစ္စည်းရှင်ရဟန်းတော်မှာ တစ်စုံတစ်ခု မှုပြစ်မရှိ၊ လွတ်ကင်းလေ၏။ (၂) ရဟန်းတော်၏တိုက်တွန်းချက်နှင့် လှူဒါယကာတို့စွဲဆိုရာ၌မူကား ရဟန်းတော်ကိုယ်တိုင်စွဲဆိုသည်နှင့်အတူကူပင်ဖြစ်၏။ ရဟန်းတော်၏တိုက်တွန်းချက်သည်လည်း ဥဒ္ဒိဿ,အနုဒ္ဒိဿဟူ၍ နှစ်ပါးရှိ၏။ ထိုတွင် ဥဒ္ဒိဿဆိုသည်ကား ခိုးသူ၏နာမည်ကို ထုတ်ဖော်ပြောကြား၍ တိုက်တွန်းခြင်းတည်း။ အနုဒ္ဒိဿဆိုသည်ကား ခိုးသူ၏နာမည်ကို ထုတ်ဖော်ပြောခြင်းကိုမပြုမူ၍ တိုက်တွန်းခြင်းတည်း။ ထိုတွင် ဥဒ္ဒိဿ၌ အစိုးရတရားသူကြီးတို့က ငွေဒဏ်ကြေးဒဏ်တပ်ခဲ့သော် ပစ္စည်းရှင်ရဟန်းတော်မှာ ဘဏ္ဍာစားထိုက်၏။ အနုဒ္ဒိဿမှာမူကား အစိုးရတရားသူကြီးတို့က ခိုးသူအား ငွေဒဏ်ကြေးဒဏ်တပ်သော်လည်း ဘဏ္ဍာစားမထိုက်၊ တစ်စုံတစ်ခုမှုပြစ်မရှိ–ဟု မှတ်လေ။

၂။ ဒုတိယအမေး။ ။ရဟန်းတို့သည် ရွှေ,ငွေစသည်များကို ရှာနေသူလှူဒါယကာတို့အား ချေးငှားအပ်နှံထားရာ၌ ၎င်းဒါယကာသည် ဥစ္စာရှင်ရဟန်းအား ပြန်၍မပေးမဆပ်ခြင်း ကြောင့် ဆိုင်ရာတရားသူကြီးများထံတောင်းခံရာ တရားသူကြီးများက ချေးရင်းငွေနှင့် ကျကုန်သောစရိတ်ငွေတို့ပါပေးလျော်စေဟု စီရင်ချက်ပေးသောကြောင့် ၎င်းဒါယကာသည် ချေးရင်းငွေနှင့် ကျကုန်သောစရိတ်ငွေတို့ပါ တရားလိုဖြစ်သောရဟန်းအား ပေးလျော်ရငြားအံ့၊ ချေးရင်းငွေထက် ပိုမိုသောစရိတ်ငွေကို ဒဏ်ငွေဟူ၍ဆိုသင့်ပါမည်လော?။

အဖြေကား။ ။ချေးရင်းငွေထက် အပိုအမိုကုန်ကျသောစရိတ်ငွေကို ဒဏ်ဟူ၍မဆိုသင့်။ အကြောင်းမူကား ရာဇဝတ်မှုစုကိုကျူးလွန်မှုအဖွက် ထောင်ဒဏ်ဖြစ်စေ, ကြိမ်ဒဏ်ဖြစ်စေ,

ငွေဒဏ်ဖြစ်စေ တပ်ရာ၌သာ ဒဏ်ဟူ၍ဆိုသင့်သည်။ ဤအရာ၌ကား တရားနိုင်သူတရားလိုနှ၌ အပိုအမိုကုန်ကျသောတရားစရိတ်ကို တရားရှုံးသူတရားခံက ကျခံစေဟူ၍ ဆုံးဖြတ်ခြင်းသည် မြန်မာဓမ္မသတ်တို့၌လည်းကောင်း၊ အိန္ဒိယရာဇဝတ်တို့၌လည်းကောင်း ဆုံးဖြတ်မြဲအရိုးအစဉ် ဖြစ်ပေသည်။ သို့သော် တရားနိုင်သူရဟန်းတော်က အပိုအမိုကုန်ကျသော စရိတ်လျော်ကြေး များကို ခံယူခြင်းငှာမအပ်။ ချေးငှားအပ်နှံရင်းဖြစ်သောငွေကိုသာ ကပ္ပိယနည်းလမ်းအားဖြင့် ခံယူအပ်၏။

၃။ တတိယအမေး။ ။ဟောင်းနွမ်းယွင်းယို ကွဲပြိုပျက်စီးရှိနေပြီးသော စေတီတော်ကို ဖြိုဖျက်၍ မဟာရံတံတိုင်းနှင့် ဘုရားရုပ်ပွားဆင်းတုမျှကိုသာချန်ထားပြီးလျှင် ၎င်းအုတ်ကျောက် **အင်္ဂတေများကို အခြားတစ်ရပ်သို့ရွှေ့ပြောင်းစုပုံထား၍ ၎င်းအရံတွင်း၌ ဘုရားသိမ်တော်ဆောက် လုပ်ကောင်းပါမည်လော?။ သို့မဟုတ် ခဏ္ဍသိမ်ဆောက်လုပ်ကောင်းပါမည်လော?။**

အဖြေကား။ ။အဖိုးတန်ခြင်း, အကျိုးကျေးဇူးများခြင်းနှိုင်းယှဉ်ရာ၏။ နောက်လုပ်သော အဆောက်အအုံက အဖိုးမတန်, အကျိုးကျေးဇူးလည်းမများရှိခဲ့သော် မဆောက်လုပ်ကောင်း။ နောက်လုပ်သောအဆောက်အအုံက အဖိုးသာ၍တန်ခဲ့သော်လည်းကောင်း၊ အကျိုးကျေးဇူး သာ၍များခဲ့သော်လည်းကောင်း ဆောက်လုပ်ကောင်း၏။

၄။ စတုတ္ထအမေး။ ။လူဖြစ်သောဒါယကာတို့သည် ကာလပိုင်းခြား၍ ရှစ်ပါး,ဆယ်ပါးသီလ များကို ခံယူဆောက်တည်၍နေရာ မသာအသုဘအလှူဇရပ်စသည့်၌ ငါးပါးသီလကိုခံယူကြသူ လူအများနှင့်အတူလိုက်၍ ငါးပါးသီလကိုခံယူသော်လည်း သီလမပျက် ခံယူကောင်း၏ဟု အချို့ အယူရှိကြ၏။ ၎င်းစကားသည် ကျမ်းဂန်များနှင့်ညီညွတ်ပါမည်လော?။

အဖြေကား။ ။ခံယူပြီးသော ရှစ်ပါး, ဆယ်ပါးသီလများပျက်ရန် အကြောင်းနှစ်ပါးသာ ကျမ်းဂန်များ၌လာ၏။ နှစ်ပါးဆိုသည်ကား ကာလအပိုင်းအခြားအတွင်း၌ သိက္ခာပုဒ်ကိုလွန် ကျူး၍ပျက်ခြင်းတစ်ပါး၊ ကာလအပိုင်းအခြားလွန်၍ ပျက်ခြင်းတစ်ပါး–ဟူ၍ နှစ်ပါးတည်း။ ဆယ်ပါး သီလကိုခံယူပြီးသောသူသည် ရှစ်ပါးသီလ,ငါးပါးသီလများကို တစ်ဖန်ခံယူခဲ့သော်လည်းကောင်း၊ ရှစ်ပါးသီလကိုခံယူပြီးသောသူသည် ငါးပါးသီလကိုခံယူခဲ့သော်လည်းကောင်း ခံယူပြီးသောသီလ ပျက်သည်ဟူ၍ သီလပျက်အင်္ဂါ၌မလာ။ စင်စစ်မူကား နောက်ထပ်မံ၍ခံသော ငါးပါးသီလသည် ဆယ်ပါး,ရှစ်ပါးသီလတို့၌အတွင်းဝင်လျက်ရှိသောကြောင့် ဆယ်ပါး,ရှစ်ပါးတို့ကို တစ်စိတ်တစ်ဒေသ အားဖြင့် ထောက်ပံ့သကဲ့သို့သာဖြစ်ပေ၏။

၅။ ပဉ္စမအမေး။ ။ရဟန်းသံဃာတော်များထင်ရှားရှိလျက် ဘုရားရုပ်ပွားဆင်းတုတော် ထံမှာ သီလခံယူသော်လည်း သီလမရဟု အချို့သောပုဂ္ဂိုလ်တို့ ထုတ်ဆိုမိန့်ဟပြောဆိုကြ၏။ ထိုစကားသည် ဘုရားအလိုတော်ကျ ဗုဒ္ဓမတ္တညျကျမ်းပြုလိမ္မာ အဋ္ဌကထာဆရာ၏အယူနှင့် တူပါမည်လော?။

အဖြေကား။ ။လူတို့သီလ၌ သီလခံယူသူ၏နှုတ်ပဋိညာဉ်အတွက်ရသည်မဟုတ်၊ လူတို့ အား သီလပေးမှုမည်သည် သိက္ခာပုဒ်အစဉ်ကိုကျေပွန်စွာရရှိခဲ့သော် ရဟန်းများအထံသို့မသွားမူ၍

စေတီရှိရာသို့မသွားမူ၍ မိမိနေရာ၌ပင်လျှင် မိမိအလိုအလျောက်နှုတ်မြွက်၍ ဆောက်တည်လျှင်လည်း ရတော့သည်သာဖြစ်၏။ ဘုရားရုပ်ပွားဆင်းတုတော်ထံမှာခံရာ၌ ဆိုဖွယ်မရှိ၊ သီလလည်းရ၏၊ ဘုရားကိုရှိသေမှုကုသိုလ်လည်း ပွားများ၏။ ထို့ကြောင့် ရဟန်းသံဃာတော်များ ထင်ရှားရှိလျက် ဘုရားရုပ်ပွားဆင်းတုတော်ထံမှာခံယူသော်လည်း သီလမရဟုဆိုကြသော ပုဂ္ဂိုလ်များ၏စကားသည် ကျမ်းဂန်မရှိ၊ ယုတ္တိမရ၊ မန္ဒပုဂ္ဂိုလ်တို့၏စကားသာတည်း။

၆။ ဆဋ္ဌအမေး။ ။ချောမောဆန်းကြယ်တင့်တယ်လျောက်ပတ်သော စေတီတော်မြတ်၏ အရံအကာ မဟာရမ်တံတိုင်းကို ဖြိုဖျက်၍လည်းကောင်း၊ ဘုရားအတွင်း အောက်မြေအပြင်၌ သမံတလင်းအခင်းပြုလုပ်ကောင်းပါမည်လော?။

အဖြေကား။ ။အကျိုးကျေးဇူးချင်းနှိုင်းယှဉ်ရာ၏။ မဟာရံတံတိုင်းရှိနေသည့် အကျိုးကျေးဇူး အောက်သမံတလင်းအကျိုးကျေးဇူးကနည်းပါးခဲ့လျှင် မလုပ်ကောင်း။ သမံတလင်းအကျိုးကျေးဇူးက များမြတ်ခဲ့လျှင် လုပ်ကောင်း၏။

၇။ သတ္တမအမေး။ ။ဝေရီဝိသဘာဂ-ဝဂ္ဂဖြစ်သောသံဃာသည် ကျောင်းတိုက်အနီးရှိလျက် ၎င်းပုဂ္ဂိုလ်တို့အား ဝတ်ကိုမကြားဘဲ ပရိဝါသ်မာနတ်ဆောက်တည်ရာ စူဠဝါပါဠိအဋ္ဌကထာတို့နှင့်ညီညွတ်ပါမည်လော?။

အဖြေကား။ ။ကြားထိုက်သောအရပ်ဒေသဌာနဥပစာအတွင်း၌ရှိနေခဲ့သော် ဝေရီဝိသဘာဂဖြစ်ခဲ့ပါလျှင် အပြစ်မရှိဟု ပါဠိအဋ္ဌကထာတို့၌ အနှုတ်မရှိ။ ထို့ကြောင့် ကြားထိုက်သောအရပ်ဒေသဌာနဥပစာအတွင်းဖြစ်ခဲ့သော် ဝေရီဝိသဘာဂဖြစ်သော်လည်း ကြားရမည်။ မကြားလျှင် အနာရောစနဒုက္ကဋ်ရတ္တိစ္ဆေဒဖြစ်လိမ့်မည်။ ကြားထိုက်သောဥပစာဆိုသည်ကား ရဟန်းတို့၏ အဆင်းကိုမြင်သော်လည်းကောင်း၊ အသံကိုကြားသော်လည်းကောင်း၊ နီးသည်ဖြစ်စေ၊ ဝေးသည်ဖြစ်စေ၊ ဟစ်အော်၍သော်လည်း ကြားအပ်၏။ အဆင်းကိုမမြင်ရာ။ အသံကိုမကြားရာ၌မူကား ကျောင်းတိုက်မှအပ၌ဖြစ်ခဲ့သော် တစ်ဆယ့်နှစ်တောင်ဥပစာသည် ကြားထိုက်သောဥပစာဖြစ်၏။ ကျောင်းတိုက်တွင်း၌ဖြစ်ခဲ့သော် ထိုကျောင်းတိုက်တစ်ခုလုံးသည် ကြားထိုက်သောဥပစာဖြစ်၏။ ဤဥပစာအတွင်း၌ ရဟန်းရှိမှန်းသိလျက်နှင့် မကြားမူ၍ အရုဏ်တက်ခဲ့သော် ဝတ္တဘေဒဒုက္ကဋ်လည်းသင့်၏၊ ရတ္တိစ္ဆေဒလည်းဖြစ်၏။ ရဟန်းရှိမှန်းမသိ၍ မကြားခဲ့သော် ဝတ္တဘေဒဒုက္ကဋ်ကား လွတ်၏။ ရတ္တိစ္ဆေဒမူကား ဖြစ်တော့သည်သာလျှင်တည်း။ ဋီကာတို့၌မူကား နိက္ခိတ္တဝတ်သားဖြစ်ခဲ့သော် ကျောင်းတိုက်အတွင်း၌ဖြစ်သော်လည်း တစ်ဆယ့်နှစ်တောင်မျှသာ အာရောစနခေတ်ဖြစ်သည်ဟု ရှင်ပဒုမဝါဒတွင် ဖွင့်ဆိုကြ၏။ ဆင်ခြင်ကြလေ။

၈။ အဋ္ဌမအမေး။ ။လူအဖြစ်သို့ရောက်ပြီးသောပုဂ္ဂိုလ်တို့သည် မိမိနေထိုင်ခဲ့သောကျောင်းကို ငါပိုင်ဆိုင်သောကျောင်းဟု ပြောဆိုကြရာ ထိုသူတို့ပိုင်ဆိုင်ထိုက် မပိုင်ဆိုင်ထိုက်ကြောင်းများကို သိလိုပါသည်။

အဖြေကား။ ။ထိုကျောင်းသည် ထိုရဟန်း၏ပုဂ္ဂလိကအဖြစ်နှင့် ရေစက်ချ၍လှူသော ကျောင်းဖြစ်ခဲ့အံ့၊ လှူထွက်၍သွားသော်လည်း ထိုသူ၏သန္တကပင်ဖြစ်၏။ သို့သော် ထိုလှူထွက်သည် ထိုကျောင်းသည် ငါ၏သန္တကဖြစ်သည်ဟု ရောင်းချ၍စားခြင်းငှာလည်းမအပ်။ ဖျက်ဆီးခြင်းငှာလည်း မအပ်။ သဒ္ဓါဒေယျဝိနိပါတဖြစ်၏။ သဒ္ဓါဒေယျဝိနိပါတဆိုသည်ကား- ပစ္စည်းရှင်ဒါယကာတို့က နောင်သံသရာကျိုးကိုယုံကြည်အားကိုး၍ လှူဒါန်းသောပစ္စည်းလေးပါးတို့ကို သံဃာအကျိုး, သာသနာအကျိုးမှတပါးသောအရာ၌ ပေးစွန့်ရောင်းချခြင်းကိုပြုခြင်းတည်း။ လောက၌ အလွဲသုံးစားမှုဟုခေါ်၏။ ဝိနည်းတော်၌ ဒုက္ကဋ်အာပတ်သင့်သည်ဟုလာ၏။ သုတ္တန်တို့၌မူကား အလွန်အပြစ်ကြီးသည်ဟုလာ၏၊ ထို့ကြောင့် သဒ္ဓါဒေယျ-လှူဒါန်းထားသော ကျောင်းပစ္စည်းမျိုး, ပရိက္ခရာဘဏ္ဍာမျိုး, ဘုရားဆင်းတု, စာထုပ်, စာအုပ်စသည်တို့ကို ငါ၏ပုဂ္ဂလိကသန္တကဖြစ်သည်ဟု အလွဲသုံးစားမှုကိုပြုခြင်းငှာမထိုက်၊ ဆင်ခြင်ကြလေကုန်-ဟူ၍ ဖြေဆိုတော်မူပါသည်။*၁

မော်လမြိုင်မြို့တရားပွဲ

လယ်တီဆရာတော်ဘုရားကြီးအား ကတွန်မြို့မှ မော်လမြိုင်သို့ မော်တော်ကားကြီးဖြင့် ပင့်ဆောင်လာရာလမ်း၌ ရင်းငြိမ်မြို့တွင်ရက်အနည်းငယ်နားပြီး၊ တန်ဆောင်မုန်းလဆန်း ၃-ရက် (အေဒီ-၁၃၊ နိုဝင်ဘာလ၊ ၁၉၂၀-ပြည့်နှစ်)တွင် မော်လမြိုင်မြို့သို့ရောက်ရှိတော်မူပါသည်။ လယ်တီဆရာတော်ဘုရားကြီးသည် မော်လမြိုင်မြို့သို့ရောက်တော်မူလျှင် ဒိုင်းဝန်းကွင်း ရှမ်းစုရပ်ဆင်ဖြူကျောင်းတိုက်အတွင်း၌ ကြီးကျယ်ခမ်းနားစွာပြင်ဆင်ထားအပ်သော စံကျောင်းတော်ကြီးအတွင်း သီတင်းသုံးနေတော်မူပြီး ဒိုင်းဝန်ကွင်း ဂတ်တဲထိပ်လမ်းဆုံမြေပြင်ရှိ ဓမ္မသာလာမဏ္ဍပ်ကြီးအတွင်း ညစဉ် တရားပွဲများကိုကျင်းပတော်မူခဲ့ပါသည်။

တရားပွဲ ပထမညမှာပင် ဆရာတော်ဘုရားကြီးက လယ်တီဦးဝဏ္ဏိတကို မြို့ပရိသတ်နှင့် မိတ်ဆက်ပေးပြီး နှုတ်ခွန်းဆက်တရားတော်ကို အနည်းငယ်မိန့်ကြားတော်မူ၍ ဦးဝဏ္ဏိတကို သာလျှင် ခန္ဓာငါးပါးတရားတော်ကြီးကို ခမ်းနားကျယ်ဝင့်စွာဟောပြောစေခဲ့သည်။ ။ ဦးဝဏ္ဏိတမှာ အသံသြဇာနှင့်ပြည့်စုံပြီး ဟောပြောပုံနည်းစနစ်မှာလည်း ဆရာတော်ဘုရားကြီးမှုနှင့်တထပ်တည်းကျသဖြင့် နားကြားရသူပရိသတ်မှာ အလွန်ကျေနပ်အားရ ဓမ္မရသကိုခံယူခွင့်ရခဲ့ကြပေသည်။

မော်လမြိုင်မှ ကျိုက်ထိုခရီးစဉ်

လယ်တီဆရာတော်ဘုရားကြီးသည် တန်ဆောင်မုန်းလဆန်း ၁၃-ရက် (အေဒီ-၂၃၊ နိုဝင်ဘာလ၊ ၁၉၂၀-ပြည့်နှစ်)တွင် မော်လမြိုင်မြို့မှ ပေါင်မြို့သို့ကြွတော်မူပြီး၊ ယင်းလပြည့်ကျော် ၁-ရက် (အေဒီ-၂၆၊ နိုဝင်ဘာလ၊ ၁၉၂၀-ပြည့်နှစ်)တွင် ဇင်းကျိုက်မြို့သို့လည်းကောင်း၊ ယင်းလပြည့်ကျော် ၃-ရက် (အေဒီ-၂၈၊ နိုဝင်ဘာလ၊ ၁၉၂၀-ပြည့်နှစ်)တွင် ကတွန်မြို့မှတစ်ဆင့်

*၁ လယ်တီဆရာတော်ကြီး၏ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်၊ ပထမတွဲ။ (စာမျက်နှာ ၄၃၀-၄၃၆)။

ရင်ငြိမ်းမြို့သို့လည်းကောင်း၊ ယင်းလပြည့်ကျော် ၅-ရက် (အေဒီ-၃၀၊ နိုဝင်ဘာလ၊ ၁၉၂၀-ပြည့်နှစ်)တွင် သထုံမြို့သို့ကြွတော်မူပါသည်။ သထုံမြို့တွင် ရွှေစာရံဘုရားဝင်းရဟန္တာသိမ်တော်ကြီး၌ ခုနစ်ညတိုင်တရားရေအေးအမြိုက်ဆေးကိုတိုက်ကျွေးတော်မူပြီး နတ်တော်လပြည့်ကျော် ၉-ရက် (အေဒီ-၃၊ ဇန်နဝါရီလ၊ ၁၉၂၁-ခုနှစ်)တွင် ကျိုက်ကော်မြို့သို့ကြွတော်မူပါသည်။

သက္ကရာဇ် ၁၂၈၂-ခုနှစ်၊ ပြာသိုလဆန်း ၁-ရက် (အေဒီ-၉၊ ဇန်နဝါရီလ၊ ၁၉၂၁-ခုနှစ်)တွင် ဘီးလင်းမြို့သို့လည်းကောင်း၊ ယင်းလဆန်း ၈-ရက် (အေဒီ-၁၆၊ ဇန်နဝါရီလ၊ ၁၉၂၁-ခုနှစ်)တွင် ကျိုက်ထိုမြို့သို့လည်းကောင်း ကြွတော်မူပါသည်။ ကျိုက်ထိုမြို့သို့ဆိုက်ရောက်တော်မူသောအခါ ဆရာတော်ဘုရားကြီးသည် ခရီးစဉ်များပြားသည့်အတွက် ပင်ပမ်းနွမ်းနယ်တော်မူရကား ရက်ကြာကြာနားနေတော်မူရန် အစီအစဉ်များပြုလုပ်ခဲ့ကြရသည်။[*၁] ကျိုက်ထိုမြို့၌နားနေတော်မူစဉ်အတွင်း မြို့လူထုပရိသတ်၏လျှောက်ထားတောင်းပန်ချက်အရ ၁၂၈၂-ခုနှစ်၊ တပို့တွဲလဆန်း ၂-ရက် (အေဒီ-၉၊ ဖေဖော်ဝါရီလ၊ ၁၉၂၁-ခုနှစ်)တွင် ဘောလုံးကွင်းအတွင်း 'ဝေဒယိတသုခ နှင့် သန္တိသုခ'တရားတော်ကိုဟောကြားတော်မူခဲ့ပါသည်။[*၂]

ဗမာတွေခြေလှမ်းတိုပုံ

တစ်နေ့သောအခါ လယ်တီဆရာတော်ဘုရားကြီးသည် ဦးဝဏ္ဏိတအား 'မောင်ဝဏ္ဏိတရဲ့၊ မော်လမြိုင်နှင့် သထုံမှာ သာသနာပြုရတာ အောင်မြင်ပြီကွဲ့၊ ဒီတစ်ခါ ပဲခူးမြို့မှာ သာသနာပြုရန်ကျန်သေးတယ်'ဟုမိန့်တော်မူပြီးလျှင် ဦးဝဏ္ဏိတအား ပဲခူးမြို့သို့ သာသနာပြုသွားရောက်ရန် စေလွှတ်တော်မူပါသည်။ ဦးဝဏ္ဏိတကိုယ်တော်သည် ဆရာတော်ဘုရားကြီး၏အမိန့်ပေးချက်ကို မငြင်းဆန်ဝံ့သော်ငြားလည်း 'မှန်လှပါဘုရား၊ တပည့်တော်မှာ ပဲခူးမြို့၌အသိအကျွမ်းမရှိသေးပါဘုရား'ဟု လျှောက်ထားခဲ့ပါသည်။

ထိုအခါ ဆရာတော်ဘုရားကြီးက ကြမ်းပြင်ကိုလက်ဝါးဖြင့်ပုတ်ပြီး 'ဒို့မြန်မာများဟာ တယ်ပြီးခြေလှမ်းတိုပါကလားကွဲ့။ အသိမရှိရင် မသွားဝံ့ဘူး၊ မဖြစ်သေးပါဘူးကွယ်၊ နိုင်ငံခြားက နယ်လှည့်လာကြတဲ့သူတွေမှာ အသိရှိကြရဲ့လားကွဲ့၊ ဝီရိယခြင်းက တယ်ပြီးကွာကြတာကိုး'ဟု မိန့်ကြားတော်မူပါသည်။

ထိုမှတဖန်ဆက်၍ သာသနာပြုလုပ်ငန်းလုပ်ကြသည်ဆိုရာတွင် အသိအကျွမ်းရှိမှ ချမ်းချမ်းသာသာပြုလုပ်ရမှ လုပ်ကောင်းသောအလုပ်မျိုးမဟုတ်ကြောင်း ရှင်းလင်းမိန့်ကြားတော်မူရာ၊ ထိုအခါမှ ဦးဝဏ္ဏိတသည် 'တပည့်တော်သွားရောက်၍ သာသနာပြုပါမည်ဘုရား'ဟု ကျေနပ်အားရဝန်ခံကတိပေးလေသည်။ ဆရာတော်ဘုရားကြီးက 'အေးကွဲ့-ဟုတ်ပြီကွဲ့၊ ဒီလိုမှ'ဟုမိန့်တော်မူ၍ သာဓုခေါ်တော်မူပါသည်။

---

*၁ ဤခရီးစဉ်များကို လယ်တီဦးဝဏ္ဏိတ(ဆရာကြီးဦးလှတင်)၏ မှတ်စုတို့မှ ကူးယူရရှိခဲ့ခြင်းဖြစ်ပါသည်။

*၂ လယ်တီဆရာတော်ကြီး၏ လယ်တီဟောကိန်းတရားစာ။ (စာမျက်နှာ ၃၅-၄၆)တွင်ကြည့်ပါ။

**ဦးဝဏ္ဏိတ ပဲခူးမြို့၌သာသနာပြုရခြင်း**

စင်စစ် ပဲခူးမြို့တွင် ရွှေကျင်သာသနာပျံ့နှံ့ထားပြီးဖြစ်သောကြောင့် ဦးဝဏ္ဏိတကိုယ်တော်သည် ပဲခူးမြို့သို့ သာသနာပြုရန် တစ်ပါးတည်း ဖိနပ်မစီး, ထီးမဆောင်းဘဲ ကြွတော်မူခဲ့ပါသည်။ ပဲခူးမြို့သို့ရောက်လျှင်ရောက်ချင်း မြို့ကျက်သရေဆောင် ရွှေမော်ဓောဘုရားကြီးကို လက်ဦးတက်ရောက်ဖူးမြော်ပြီးမှ မြို့တွင်းသို့ဝင်လေသည်။ နေကပူ၍ ရေလည်းမွတ်သိပ်လာသဖြင့် ဝတ်လုံတော်ရမောင်ကြာခိုင်ဟု ဆိုင်းဘုတ်ချိတ်ထားသော အိမ်ကြီးတစ်ဆောင်ရှေ့သို့အရောက်တွင် အိမ်တွင်းသို့ကြွတော်မူရာ ဒကာမတစ်ဦးထွက်လာပြီး ဝတ်ချလျက် အကျိုးအကြောင်းမေးမြန်းလျှောက်ထားလေသည်။ ဝတ်လုံတော်ရမရှိသေးသော်လည်း မိမိတို့ကိုးကွယ်ရင်းကျောင်းတိုက်သို့ လိုက်ပါပို့ဆောင်ပေးခဲ့ကြသည်။

ဘုန်းတော်ကြီးကျောင်းအတွင်းသို့ရောက်သော် ကိုယ်တော်အချို့ ဦးခေါင်းရိတ်နေကြသဖြင့် ထိုကိုယ်တော်များအနီးသို့ချဉ်းကပ်ရာ ဝါရင့်ကိုယ်တော်တစ်ပါးက ‘ကိုယ်တော်–ဘယ်ကတုန်း’ဟု မေးသဖြင့် ‘သထုံမှကြွလာကြောင်းနှင့် သာသနာပြုရန်လာရကြောင်း’ လျှောက်ထား၏။ ထိုအခါ ‘သထုံ မည်သည့်တိုက်မှာနေခဲ့သည်’ ကိုမေးပြန်ရာ ‘လယ်တီဆရာတော်ဘုရားကြီး၏တပည့်ဖြစ်ကြောင်း’ လျှောက်ထားလျှင် ဝမ်းပမ်းတသာကြိုဆိုကြပြီး နေရာထိုင်ခင်းကောင်းများကိုပေးအပ်၍ သာသနာပြုလုပ်ငန်းကို နှစ်သက်သလိုလုပ်ဆောင်ရန်ခွင့်ပြုကြသည်။*၁

ဦးဝဏ္ဏိတသည် ရွှေမော်ဓောဘုရားကြီး၏ဝေယျာဝစ္စအသင်းကြီးဖြစ်သော တြိရတနယဂ်ဏာအသင်းသားများ၏အကူအညီဖြင့် တရားပွဲများကျင်းပပြီး သံခိပ်အသင်း၊ ပဋ္ဌိစ္စသမုပ္ပါဒ်အသင်း၊ စက်ပရိတ်အသင်းတို့ကို ဖွဲ့စည်းတည်ထောင်တော်မူသည်။ ရှေးယခင်က ဆရာတော်ဘုရားကြီးနှင့်အတူ သီတင်းသုံးနေခဲ့စဉ် ဆရာတော်ဘုရားကြီးအား ဆံရိတ်ပေးသောအခါတိုင်း ဆရာတော်ဘုရားကြီး၏ဆံတော်တို့ကိုသိမ်းဆည်းထားခဲ့ရာ ပဲခူးမြို့မှ တပည့်တော်တို့အား ငွေသားဆင်ဖြူတော်ရုပ်တစ်ခုကိုပြုလုပ်စေပြီး ထိုဆင်ရုပ်၌ထည့်သွင်း၍ ‘သဗီဝကေသဓာတု’ အဖြစ် ပူဇော်ထားရှိခဲ့လေသည်။*၂

**မန္တလေးမှဆက်ကပ်လွှာနှစ်စောင်**

သက္ကရာဇ် ၁၂၈၂–ခုနှစ်၊ တပို့တွဲလအတွင်း (အေဒီ ၁၉၂၁–ခုနှစ်၊ ဖေဖော်ဝါရီလ)တွင် လယ်တီဆရာတော်ဘုရားကြီးသည် ကျိုက်ထိုမြို့စံကျောင်း၌ သီတင်းသုံးနေတော်မူစဉ် မန္တလေးမြို့ နိုင်ငံခြားသာသနာအသင်းဒုတိယဥက္ကဋ္ဌ မစိုးရိမ်ဆရာတော်ဦးဉာဏထံမှ ဆက်ကပ်စာလွှာများ ရောက်ရှိလာပါသည်။ ထိုစာတို့တွင် လန်ဒန်ပါဠိဒေဝီနှင့် ဒေါက်တာမီးလ်ဆိုသူပညာရှင်တစ်ဦးတို့၏ အမေးပုစ္ဆာတို့ကို မြန်မာဘာသာပြန်ဆိုချက်များပါရှိလေသည်။ ဆရာတော်ဦးဉာဏသည် ဆရာတော်ဘုရားကြီး၏ကျန်းမာရေးအခြေအနေကိုငဲ့၍ ဤအချိန်မျိုး၌ မည်သည့်စာလွှာကိုမျှ

*၁ ဤအချက်တို့ကို လယ်တီဦးဝဏ္ဏိတ (ဆရာကြီးဦးလှတင်) ကိုယ်တိုင်ပြောပြပါသည်။

*၂ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များသမိုင်း။ (စာမျက်နှာ–၄၆၀)။

ဆက်ကပ်ရန် ဆန္ဒမရှိသော်လည်း လန်ဒန်ပါဠိဒေဝီက မိမိသိလိုသမျှကို ကျေကျေလည်လည် သိရှိနိုင်ရန် မြန်မာဘာသာစကားတတ်ပါက ကိုယ်တိုင်ပင် ဆရာတော်ဘုရားကြီးထံလျှောက်ထား လိုကြောင်းစသည်ဖြင့် ထုတ်ဖော်ရေးသားခဲ့သည်ဖြစ်၍*၁ လန်ဒန်ပါဠိဒေဝီ၏စာကိုဘာသာပြန်ဆို၍ ဆက်ကပ်ရခြင်းဖြစ်ပါသည်။ ထို့အတူ ဒေါက်တာမီးလ်၏စာမှာလည်း သာမန်မေးခွန်းမျိုးမဟုတ်။ သဘာဝယုတ္တိများစွာပါရှိရန်လိုသည်ဖြစ်၍ ဤအမေးတို့ကား ဆရာတော်ဘုရားကြီးတို့၏အရာဌာန၊ ဆရာတော်ဘုရားကြီးတို့ဖြေဆိုတော်မူမှသာ သင့်မြတ်လိမ့်မည်ဟုဆုံးဖြတ်ပြီး ဆရာတော်ဘုရား ကြီး၏လက်တော်အရောက် ဆက်ကပ်ခဲ့ရခြင်းဖြစ်ပါသည်။

**လန်ဒန်ဒေဝီ၏ပုစ္ဆာများ**

လန်ဒန်ပါဠိဒေဝီအမည်ရှိသော ဒါယိကာမကြီးသည် ပါဠိစာပေကိုကျွမ်းကျင်၊ အဘိဓမ္မာ ပိဋကတ်၌ စူးစူးစိုက်စိုက်လေ့လာထားသူဖြစ်လင့်ကစား မိမိကိုးကွယ်ရင်းဖြစ်သော ဣသရနိမ္မာနဝါဒ ဆိုင်ရာ ဘာသာကိုသာ ကိုးကွယ်မြဲဖြစ်၍နေရာ*၂ နိယာမတရားတို့ကို ဆရာတော်ဘုရားကြီး က လွှန်ခဲ့သောအခါကရှင်းလင်းပြပြီးဖြစ်သော်လည်း မိမိကိုးကွယ်ရင်းဘာသာနှင့်နှိုင်းစာနေသဖြင့် သဘောမသက်ဝင်နိုင်ဘဲရှိနေပြန်ပါသည်။ သို့ဖြစ်၍ ဤတစ်ကြိမ် နိယာမပုစ္ဆာတို့ကို ထပ်မံ မေးလျှောက်သောအခါ၌ အဖြေလွှာအဆုံးတွင် လယ်တီဆရာတော်ဘုရားကြီးက လန်ဒန်ဒေဝီ ရောရောထွေးထွေးဖြစ်ဟန်ရှိသော ကံတရား,ဉာဏ်တရား,တန်ခိုးအရာတို့ကိုကွဲပြားစေရန် အောက်ပါအတိုင်း ထည့်သွင်းဖြေဆိုတော်မူခဲ့ပါသည်။

> 'ဤအရာ၌ ကံ၏သက်ဆိုင်ရာ, ဉာဏ်၏သက်ဆိုင်ရာ, တန်ခိုး၏သက်ဆိုင်ရာ– သုံးပါးကို ခြားနား၍သိရာ၏။ သေလွန်သည်မှနောက်၌ ဘဝအသစ်အသစ်ဖြစ်ပေါ် ခြင်းသည် ကံ၏ဆိုင်ရာသာတည်း။ တန်ခိုး၏ဆိုင်ရာမဟုတ်။ ရှေးကံကောင်းလျှင် ကောင်းသည့်အလျောက် မြင့်မြတ်ရာ၌ဖြစ်ပေါ်၏။ ရှေးကံမကောင်းလျှင် မကောင်း သည့်အလျောက် ယုတ်နိမ့်ရာ၌ဖြစ်ပေါ်၏။ နတ်တန်ခိုး,သိကြားတန်ခိုး,ဗြဟ္မာတန်ခိုး တို့နှင့် ပြုပြင်နိုင်သောအရာမဟုတ်၊ ကယ်တင်နိုင်သောအရာမဟုတ်။
>
> သတ္တဝါတို့၏သန္တာန်၌ရှိနေကြသော ဒုစရိုက်အပြစ်တို့ကို ပ,ပျောက်စေခြင်း သည် ဉာဏ်၏ဆိုင်ရာသာတည်း။ တန်ခိုး၏ဆိုင်ရာမဟုတ်။ ဝိပဿနာဉာဏ်, မဂ် ဉာဏ်တို့ဖြင့် တဏှာ,မာန,ဒိဋ္ဌိကိလေသာတို့ကိုပယ်ရှား၍ပစ်မှသာလျှင် ထိုဒုစရိုက်

*၁ Ledi Sayadaw' The Manuals of Buddhism. SBVMS, Kuala Lumpur, 2000. Page-236. လယ်တီ ဆရာတော်ဘုရားကြီး၏ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်ကျမ်းကြီး၊ ပထမတွဲ။ (စာမျက်နှာ–၁၀၀)။

*၂ မစ္စစ်ရီးဒေးဗစ်(ခေါ်)လန်ဒန်ပါဠိဒေဝီသည် အသက်အရွယ်ကြီးရင့်သည့်တိုင် ဗုဒ္ဓဟောကြားသော အနတ္တဝါဒ၏ သဘောကို မသက်ဝင်ကြောင်း ကမ္ဘာ့ဗုဒ္ဓသာသနာပြုအရှင်သေဋ္ဌိလာဘိဝံသဆရာတော်ကြီး မိန့်ကြားတော်မူဖူးပါသည်။

အပြစ်တို့သည် ပပျောက်ကြလေကုန်၏။ နတ်တန်ခိုး,သိကြားတန်ခိုး,ဗြဟ္မာတန်ခိုး တို့နှင့် ပြုပြင်နိုင်သောအရာမဟုတ်။

မြေထဲငုပ်လျှိုးခြင်း, မိုးကောင်းကင်သို့ပျံသွားခြင်း အတုအယောင် အကောင် အထည် အထူးထူးအထွေထွေဖန်ဆင်းခြင်းတို့သည်သာလျှင် နတ်တန်ခိုး, သိကြား တန်ခိုး, ဗြဟ္မာတန်ခိုးတို့အရာပေတည်း။

ထိုကြောင့် ကဿပရသေ့ခင်ကြီးသည် မိမိကိုယုံကြည်စွာကိုးကွယ်သောသူတို့ ကို သေကြသည်မှနောက်၌ မိမိတန်ခိုးဖြင့် အထက်ကောင်းကင်ဘုံသို့ကယ်တင် နိုင်သည်ဟူသော အယူသည် အမှောက်အမှား ဝါကြွားသောအယူသာဖြစ်လေ သတည်း။'–ဟု ဖြေဆိုတော်မူခဲ့ပါသည်။[*၁]

**အာကာသနှင့် မာတုဂါမပြဿနာ**

လန်ဒန်မြို့နေ ဒေါက်တာမီးလ် (Dr. E. J. Mills) ထံမှ အမေးပုစ္ဆာနှစ်ရပ်တွင် ပထမ ပုစ္ဆာမှာ အာကာသပုစ္ဆာဖြစ်ပြီး၊ ဒုတိယပုစ္ဆာမှာ မာတုဂါမရဟန်းပြုခြင်း (တစ်နည်း) ဘိက္ခုနီပုစ္ဆာ ဖြစ်သည်။[*၂]

ဤပုစ္ဆာနှစ်ရပ်တို့တွင် ရှေးဦးအမေးဖြစ်သော အာကာသပုစ္ဆာသည် အလွန်လေးနက်သော ပုစ္ဆာတစ်ရပ်ဖြစ်သည်။ စင်စစ် ဒေါက်တာမီးလ်သည် မြောက်ပိုင်းဗုဒ္ဓဘာသာမဟာယာန၌ အလွန် ထင်ရှားသည့် အရှင်ဝသုဗန္ဓု[*၃] ၏အာကာသဆိုင်ရာအယူအဆများကို လေ့လာထားပြီးဖြစ်ရာ ထိုမဟာယာနဝါဒလာ အာကာသအယူအဆနှင့် ထေရဝါဒပါဠိပိဋကတ်စာပေလာ အာကာသ အယူအဆတို့ကိုတိုက်ဆိုင်လို၍ မေးလျှောက်ခြင်းဖြစ်လေသည်။ လယ်တီဆရာတော်ဘုရားကြီး သည် မြောက်ပိုင်းမဟာယာနအဘိဓမ္မာအယူအဆတို့ကို ဖတ်ရှုတော်မူထားခြင်းမရှိခဲ့သော်လည်း ပင်ရင်းမူလဖြစ်သော ထေရဝါဒဆိုင်ရာဗုဒ္ဓအဘိဓမ္မာတို့၌ ကျနနိုင်နင်းလှသည်ဖြစ်၍ ဒေါက်တာမီးလ် သိလိုသော အာကာသပုစ္ဆာကို အလွန်တိကျသေသပ်စွာဖြေတော်မူခဲ့ပေသည်။ တစ်နည်းအားဖြင့် ဒေါက်တာမီးလ်သိရှိလိုသမျှကို သိမ်းရုံးပါဝင်ပေါ်လွင်စေရန် ဖြေဆိုတော်မူနိုင်ခဲ့ပါသည်။[*၄]

မာတုဂါမပုစ္ဆာခေါ် ဘိက္ခုနီသာသနာနှင့်စပ်၍ ဒေါက်တာမီးလ် ဝေခွဲ၍မရဖြစ်နေသော အချက်အလက်အချို့ကို အမေးစကားရပ်မှထုတ်ယူ၍ တဆစ်ချင်းဖြည်၍ ရှင်းလင်းဖြေဆိုတော် မူခဲ့ပါသည်။ လယ်တီဆရာတော်ဘုရားကြီး ဖြေဆိုထားတော်မူပုံမှာ အောက်ပါအတိုင်း ဖြစ်လေသည်။

---

[*၁] လယ်တီဆရာတော်ဘုရားကြီး၏ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်ကျမ်းကြီး၊ ပထမတွဲ။ (စာမျက်နှာ–၁၃၂၊ ၁၃၃)။

[*၂] ယင်း။ (စာမျက်နှာ ၁၃၄–၁၅၃)။

[*၃] ဝသုဗန္ဓုသည် မဟာယာနဗုဒ္ဓဘာသာ၏ခေါင်းဆောင်တစ်ဦးဖြစ်ပြီး၊ အိန္ဒိယနိုင်ငံ ဂုပ္တ (Gupta)ခေတ်၌ ထင်ရှားခဲ့သည်။ ဝသုဗန္ဓု၏ အယူအဆများကိုအခြေခံ၍ သုခဝတီဘုံအယူအဆ၊ ဇင်(ဈာန်)ဘာသာအယူအဆများ ပေါ်ထွန်းခဲ့ခြင်းဖြစ် သည်။ Stefan Anacker' Seven works of Vasubandhu. Motilal Bamarsidass, Delhi. 2005. Page-1.

[*၄] ဦးသော်ဇင်၏ ပဋ္ဌာန်းအလင်းပြ။ မြင်သာစာပေ၊ ရန်ကုန်မြို့။ ၁၉၇၁–ခုနှစ်။ (စာမျက်နှာ–၉)။

၁။ 'အာနန္ဒာသည် မြတ်စွာဘုရားထံတော်ပါးသို့ချဉ်းကပ်၍ မာတုဂါမတို့အား ဘိက္ခုနီမပြုလုပ်နိုင်စေရန် ခွင့်တောင်း၍ အခွင့်ပေးတော်မူရသည်'ဟု ကျမ်းအစောင်စောင်ကို့၌ ပါပါသည်။ ။ပုစ္ဆာစကား။

ဤစကားရပ်ကို ပုစ္ဆာရှင် မယုံကြည်နိုင်ရှိ၏။ အကြောင်းမှာ နောက်၌ထင်ရှား လတ္တံ့။ ။အဖြေ။

၂။ 'မြတ်စွာဘုရားသည် ဤကဲ့သို့ခွင့်ပြုရန်ကို သဘောတော်မပါ'ဟူ၍လည်း ပြောကြပါသည်။ ။ပုစ္ဆာစကား။

'သဘောတော်မပါ'ဟုပြောကြသည်မှာ 'မာတုဂါမများရဟန်းပြုကြသည့် **အတွက် နောက်၌အပြစ်ဖော်ပြချက်များစွာပါရှိသောကြောင့် သဘောတော်မပါ'ဟု ယူဆကာ** ပြောကြပေသည်။ ပြောကြသော်လည်း 'သဘောတော်မပါသည်'မဟုတ်။ 'သဘောတော်ပါသည်သာ'ဖြစ်၏။ အကြောင်းမူကား ခပ်သိမ်းသောမြတ်စွာဘုရား တို့၏သာသနာတို့မှာ ဘိက္ခုပရိသတ်၊ ဘိက္ခုနီပရိသတ်၊ ဥပါသကာပရိသတ်၊ ဥပါသိကာ ပရိသတ်ဟူ၍ ပရိသတ်လေးပါးရှိမြဲဖြစ်၏။

မာရသံယုတ်ပါဠိတော်၌– ဘုရားဖြစ်တော်မူ၍ အဇပါလညောင်ပင်၌နေတော် မူစဉ်အခါတွင် ပရိနိဗ္ဗာန်စံတော်မူပါဟု မာရ်နတ်လျှောက်ထားရာ၌ပင်လျှင် အကြင် မျှလောက် ငါဘုရား၏ပရိသတ်လေးပါးတို့သည် ငါဘုရား၏သာသနာ၌မမွေ့ ကောင်းစွာ မလိမ္မာကြကုန်သေး၊ ထိုမျှလောက် ငါဘုရားပရိနိဗ္ဗာန်မစံသေးဟူ၍ ဟောတော်မူချက် ရှိ၏။ ထိုအခါကပင်လျှင် ဘိက္ခုနီပရိသတ်၏ပြည့်စုံခြင်းသည် သာသနာတော်မြတ်၏ ပြည့်စုံခြင်းအင်္ဂါတစ်ပါးအဖြစ်ဖြင့် ရည်မှတ်တော်မူရင်းဖြစ်သည်ဟု ယုံကြည်ထိုက် လှ၏။

ထိုမှနောက်၌ ဥပရိပဏ္ဏာသ ဝဋ္ဋသုတ် အစရှိသောထိုထိုသုတ္တန်ကြီးငယ်တို့မှာ လည်း ထိုနည်းတူလာရှိလျက်ရှိ၏။ သို့ရာတွင် မာတုဂါမတို့၏အပေါ်မှာ ကြီးမား စွာသော ဥပဒေအချုပ်ကြီးများကို ထားတော်မူရန် အရေးအလွန်ကြီးလှသောကြောင့် ထိုအလွန်ကြီးလှသောအရေးကို အလိုတော်ကျ ပြုလုပ်လွယ်စေခြင်းငှာ မာတုဂါမများ ရဟန်းပြုကြသည့်အတွက် ဖြစ်ထိုက်ရာသောအပြစ်ကြီးများကိုထုတ်ဖော်၍ ဟော တော်မူရပြန်သတည်း။ ။အဖြေ။

၃။ အာနန္ဒာသည် တတိယမြောက်လျှောက်ထားမြစ်ပယ်ပြီးနောက် တစ်ဖန် ပယ်ခွင့်မရသာအောင် ကြီးစွာသောအကြောင်းကိုဖော်ပြ၍ စတုတ္ထမြောက်ခွင့်တောင်း ပြန်သောအခါ ခွင့်ပြုတော်မူရချေသည်–ဟူ၍လည်း ပါဠိတော်စာအုပ်များမှာပါသည်။ **ပုစ္ဆာစကား။**

ပါသည်မှန်ပေ၏။ ပါသော်လည်း အလိုတော်မရှိပါဘဲလျက် ပယ်ခွင့်မသာလှ၍ ခွင့်ပေးရသည်မဟုတ်။ ရှေ့အဖို့ကပင် ဤကဲ့သို့သော လျှောက်ထားချက်ကြီးသို့ ဆိုက်ရောက်သောအခါမှ ခွင့်ပြုတော်မူမည်ဟု မျှော်လင့်စောင့်ဆိုင်းလျက်ရှိကြောင်းကို (၂-ပုစ္ဆာအဖြေ)မှာ ဖော်ပြခဲ့သောအကြောင်းများနှင့်ပင် ထင်ရှားလျက်ရှိလေပြီ။ ။အဖြေ။

၄။ ထိုမှတပါးလည်း အရှင်အာနန္ဒာ လျှောက်ထားဖန်များလှ၍ မြတ်စွာဘုရား မနှစ်သက်သော်လည်း ခွင့်ပြုတော်မူရပြီးနောက် အရှင်အာနန္ဒာအား မိန့်ကြားတော်မူပြန်သည်မှာ– 'အာနန္ဒာ၊ ယခု ငါဘုရား၏သာသနာသည် မာတုဂါမများ ရဟန်းပြုကြသည့်အတွက် အနှစ်ငါးရာသာတည်တော့လတ္တံ့'ဟူ၍ မိန့်တော်မူကြောင်းပါရှိပါသည်။ အကျွန်ုပ်တို့၏ကိုးကွယ်ရာဖြစ်တော်မူသော မြတ်စွာဘုရားရှင်သည် ဤကဲ့သို့ မိန့်တော်မူလိမ့်မည်ဟုမထင်ပါ။ ။ပုစ္ဆာစကား။

မထင်ခြင်း၏အကြောင်းကား– ယခု သာသနာတော်အနှစ်နှစ်ထောင်ကျော်ရှိသည်တိုင်အောင် အမြစ်ပင်မကြီးဖြစ်သော ပိဋကတ်သုံးပုံ, ပရိယတ္တိသာသနာတော်မြတ်ကြီး ထင်ရှားရှိနေသည်ကို ပုစ္ဆာရှင် မျက်မြင်ဒိဋ္ဌတွေ့ကြုံရလျက်ရှိနေသည်နှင့် အနှစ်ငါးရာသာတည်လတ္တံ့ဟူသော စကားသည် မျက်မြင်ဒိဋ္ဌနှင့် အလွန်ကွာလှမ်းလျက်ရှိနေသောကြောင့်တည်း။ ထိုစကားသည် ဂရုဓမ်တရားရှစ်ပါး ပညတ်တော်ကြီးများကိုမထားခဲ့လျှင် မာတုဂါမများရဟန်းပြုကြသည့်အတွက် သက်သက်ဖြစ်ထိုက်သော အပြစ်ကိုပြဆိုသောစကားသာတည်း။ ထိုစကားကိုလည်း နောက်၌ တစ်ဖက်ဆည်ကန်ဥပမာဖြင့် သေချာစွာ ပယ်ဖျက်တော်မူခဲ့လေပြီ။ ဖြစ်ထိုက်သော အပြစ်ကို ပြဆိုရခြင်းသည်လည်း မာတုဂါမတို့အပေါ်၌ အလွန်ဝန်လေးလှစွာသော ဂရုဓမ်တရားကြီးများကို ထားထိုက်လှပေသည်ဟု ကျေနပ်သမှု အလေးပြုကြစေရန်အတွက်ပေတည်း။ ။အဖြေ။

၅။ 'မာတုဂါမတို့ ဘိက္ခုနီမ မပြုထိုက်'ဟု မြတ်စွာဘုရားသဘောရှိတော်မူပါလျှင် ဘိက္ခုနီပြုခွင့်ကိုပင် အခွင့်ပေးတော်မူလိမ့်မည်မဟုတ်ဟု ထင်ပါသည်။ ။ပုစ္ဆာစကား။

မာတုဂါမတို့ ဘိက္ခုနီမ မပြုထိုက်ဟူ၍ သဘောမရှိသည့်အတွက်ကြောင့်ပင်လျှင် ခွင့်ပေးတော်မူလျက်ရှိလေပြီ။ ။အဖြေ။

၆။ ရုတ်တရက်ခွင့်မပေးဘဲ နှေးရက်ကြန့်ကြာအောင်ပြု၍ထားခြင်းကို အကျွန်ုပ်တို့ နားလည်ပါ၏၊ သဘောကျနိုင်ပါ၏။ ။ပုစ္ဆာစကား။

နှေးရက်ကြန့်ကြာအောင်ပြု၍ထားခြင်းကို သဘောကျနိုင်ပါလျှင် ခွင့်တောင်းမှု နှေးရက်ကြန့်ကြာစေပြီးမှ ခွင့်ပေးမှု, အပြစ်ကြီးများကိုဖော်ပြမှု အလုံးစုံသည်လည်း

အကုန်ကျေလည်လေတော့သည်။ ခဲယဉ်းစွာသောအရေးအရာကြီးတို့၌ လူအများတို့ကို မိမိအလိုရှိရာသို့ ပိုင်နိုင်စွာပါနိုင်ကြစေရန် ပညာရှိကြီးတို့အသုံးပြုကြရိုးဖြစ်သော ပရိယာယ်မှုကြီးပေတည်း။ ။အဖြေ။

၇။ ခေတ်ကလည်း ခေတ်ပျက်၊ လျှောက်ထားချက်ကလည်း ကြီးကျယ်သော အချက်ကြီးတစ်ရပ်ဖြစ်ပါသည်။ ရဟန်းတော်များကလည်း သဘောမကျ။ ထို့ကြောင့် ကောင်းမွန်သောနည်းလမ်းဥပဒေသတို့ကို သေချာစွာစဉ်းစားပြီးမှ ထုတ်ဖော် မေးလျှောက်ရပါသည်။ ။ပုစ္ဆာစကား။

ဤစကားသည် ဖြေသောသူအားလည်း သတိပေးလိုက်သောစကားဖြစ်ပေသည်။ ။အဖြေ။

၈။ 'အနှစ်ငါးရာသာတည်လတ္တံ့'ဟု ဗျာဒိတ်စကားထားတော်မူခဲ့ခြင်းသည် မြတ်စွာဘုရားရှင်၏ပါရမီတော်၊ ဉာဏ်တော်၊ ဘုန်းတန်ခိုးတော်များနှင့်နှိုင်းစာသည်ရှိသော် မလျော်မသင့်ဟုထင်ပါသည်။ ။ပုစ္ဆာစကား။

ဗျာဒိတ်စကားထားတော်မူခဲ့သော နိယတစကားမျိုးမဟုတ်ကြောင်း၊ လောက၌ အချို့သောသူတို့၏အယူအပြောကိုဖြေဆိုရာ၌ ပြီးစီးခဲ့လေပြီ၊ (၄–ပုစ္ဆာအဖြေ)မှာလည်း ပြီးစီးခဲ့လေပြီ။ ။အဖြေ။

၉။ ထို့မှတပါးလည်း နောက်နောက်သောအခါတို့၌ ချီးမွမ်းထိုက်သော ဘိက္ခုနီမတို့ကိုလည်း သီးခြား၍သီးခြား၍ ချီးမွမ်းတော်မူသည်များကိုလည်း တွေ့ရှိရပါသည်။ ရဟန်းပြုမှုကိုအလိုတော်မရှိခဲ့လျှင် ချီးမွမ်းတော်မူလိမ့်မည်မထင်ပါ။ ။ပုစ္ဆာစကား။

မြတ်စွာဘုရားအလိုတော်ရှိရင်းပင်ဖြစ်ကြောင်း ရှေး၌ထင်ရှားခဲ့လေပြီ။ ။အဖြေ။

၁၀။ 'ဤအနှစ်ငါးရာ'ဟူသောစကားသည် မြတ်စွာဘုရား၏စကားတော်မဟုတ်။ ပထမသင်္ဂါယနာပွဲအပြီးတွင် ထိုအစည်းအဝေးမှာပင် အရှင်အာနန္ဒာကို အပြစ်ဆိုကြသော ရဟန်းများထဲက တစ်ပါးပါး၏စကားသာဖြစ်ရာပါသည်။ ။ပုစ္ဆာစကား။

မြတ်စွာဘုရား၏စကားတော်ပင်ဖြစ်ကြောင်း။ ထိုစကားသည်လည်း နိယတဗျာဒိတ်စကားမျိုးမဟုတ်။ အနိယတစကားမျိုးသာဖြစ်ကြောင်း ရှေ့၌ထင်ရှားစေခဲ့ပြီ။ အချို့သောပုစ္ဆာများမှာ အသိဉာဏ်အဖြေ ရှင်းလင်းစေရန် ပြင်ဆင်လိုက်ပေသည်။ 'အနှစ်ငါးရာ'ဟူသောစကား၌ ဖြေရှင်းချက်ပြီး၏။

ဤပုစ္ဆာအဖြေမှာ– 'အနှစ်တစ်ထောင်တိုင်အောင် အတည်ပြုရာရောက်ပြန်၏' ဟူသောစကား၌ ပဋိသမ္ဘိဒါပတ္တအရိယာပုဂ္ဂိုလ်မျိုးတို့နှင့်တကွ ပြည့်စုံစွာတည်ခြင်းကိုမိန့်ဆိုတော်မူသဖြင့် 'အနှစ်တစ်ထောင်မှနောက်၌ အရိယာပုဂ္ဂိုလ်မျိုး အဆင့်ဆင့်ယုတ်လျော့၍သွားလတ္တံ့'ဟူ၍လည်း မိန့်တော်မူရာရောက်၏။ အမြစ်ပင်မနှင့်အကိုင်းအခက်ဥပမာအတိုင်း ပြုစုသူ၊ ဖျက်ဆီးသူ၊ ကောင်းစွာကျင့်ကြသူ၊ မကျင့်ကြသူတို့

အတွက် 'သာသနာတော်မြတ်ကြီးသည် ရံခါရံခါထွန်းကားခြင်း၊ ရံခါရံခါမှေးမှိန်ခြင်း၊ အရိယာပုဂ္ဂိုလ်မျိုးများ ရံခါရံခါပေါ်ပေါက်ခြင်း၊ ရံခါရံခါပပျောက်ခြင်း၊ ဆုတ်တုံ့တက်တုံ့ တက်တုံ့ဆုတ်တုံ့သွားလတ္တံ့'ဟူ၍ဟောတော်မူရာကျ၏။ အဋ္ဌကထာဆရာကြီးတို့ကား အနှစ်ငါးထောင်ကို အမှန်ပြုကြကုန်၏။ ပါဠိတော်နှင့်အလျော်ပင်ဖြစ်၏။

လိုရင်းအချုပ်မှာမူကား 'လောက၌ ပါဠိစကားတတ်ကျွမ်းသူများနှင့် ပိဋကတ်သုံးပုံပါဠိတော်ကြီး တည်ရှိသမျှကာလပတ်လုံး သာသနာတော်ကြီးသုံးပါး တည်ရှိသည်သာ'ဟု ယုံကြည်ထိုက်၏။ 'ငါးထောင်'ဟူသည်လည်း လူ့ပြည်၌အပိုင်းအခြားပေတည်း။ အထက်နတ်ပြည်တို့၌မူကား သာသနာတော်မြတ်ကြီးသည် အနှစ်ငါးထောင်မျှမက၊ ငါးသိန်းမျှမကတည်ရှိရာလတ္တံ့။

အကြောင်းမူကား-ဘုရားလက်ထက်တော်၌ မဇ္ဈိမတိုက်ကြီးမှာလူသောတာပန်ပေါင်း ကုဋေများစွာဖြစ်ကြကုန်၏။ ထိုလူတို့သည် ယခုအခါ အထက်နတ်ပြည်တို့မှာရှိနေကြကုန်၏။ နတ်ပြည်တို့မှသောတာပန်ဖြစ်ကြကုန်သော နေနတ်သား, လနတ်သား, စတုမဟာရာဇ်နတ်မင်းကြီးများ, တာဝတိံသာသိကြားမင်း, နတ်မင်းကြီးများ, နတ်သားနတ်သမီးပေါင်းလည်း ကုဋေများစွာပင်ရှိကြ၏။ ထိုနတ်အရိယာတို့ ထိုထိုနတ်ပြည်မှာရှိနေကြသမျှကာလပတ်လုံး စတုမဟာရာဇ်စသောအထက်နတ်ပြည်တို့မှာ သာသနာ တည်လျက်ပင်ရှိပေလတ္တံ့။ ဗြဟ္မာ့ပြည်၌မူကား ဝိပဿီမြတ်စွာဘုရားမှစ၍ ငါတို့ ဘုရားလက်ထက်တော်တိုင် ဗုဒ္ဓဘာသာသာသနာသည် သုဒ္ဓါဝါသနတ်ပြည်မှာ တစ်ဆက်တည်းတည်ရှိ၏။ ဤအကြောင်းကို မဟာဝါပါဠိတော်၊ မဟာနိဒါနသုတ်၊ သက္ကပဉှာသုတ်၊ မဟာဂေါဝိန္ဒသုတ်တို့ကိုမြင်၍ သိကြရကုန်၏။

ယခုအခါ နတ်ပြည်ခြောက်ထပ်လုံး၊ ဗြဟ္မာ့ပြည်အလုံးသည် အရိယာတို့ဖြင့်ပြည့်လျက်ရှိကြ၏။ ယခုအခါ၌ လူ့ပြည်မှသေလွန်၍ နတ်ပြည်သို့ရောက်ကြသူများသည် နိဗ္ဗာန်နှင့်အလွန်နီးစပ်လျက်ရှိ၏။ ဘုရားလက်ထက်တော်၌ အလုံးစုံသော အကြောင်းအရာတို့ကို နတ်ပြည်သို့ရောက်မှ စေ့စုံစွာကြားသိကြရကုန်လတ္တံ့။ ဤအကြောင်းကိုမူကား ဆရာတော်စီရင်သည့် သာသနသမ္ပတ္တိဒီပနီတွင် 'သတ္ထာဒေဝမနုဿာနံဂုဏ်တော်အဖွင့်'မှာ ပြည့်စုံစွာပါရှိလေပြီ။*၁

ဤအဖြေကို သက္ကရာဇ်၁၂၇၅-ခုနှစ်၊ ပြာသိုလဆန်း ၇-ရက်နေ့ (အေဒီ-၁၅၊ ဇန်နဝါရီလ၊ ၁၉၂၁-ခုနှစ်) နံနက် ၈-နာရီအချိန်တွင် ဖြေဆို၍ပြီးဆုံးခြင်းသို့ရောက်ပါသည်။*၂

*၁ လယ်တီဆရာတော်ကြီး၏သာသနသမ္ပတ္တိဒီပနီ။ မြန်မာ့အလင်းသတင်းစာတိုက်၊ ရန်ကုန်မြို့။ ၁၃၁၄-ခုနှစ်။ (စာမျက်နှာ ၁၃၅-၁၄၈)ကိုကြည့်ပါ။

*၂ လယ်တီဆရာတော်ဘုရားကြီး၏ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်ကျမ်းကြီး။ ပထမတွဲ။ (စာမျက်နှာ ၁၄၈-၁၅၃)။

## ပဲခူးသို့

လယ်တီဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၈၂–ခုနှစ်၊ တပို့တွဲလဆန်း ၁၂–ရက် (အေဒီ–၁၉၊ ဖေဖော်ဝါရီလ၊ ၁၉၂၁–ခုနှစ်)တွင် ကျိုက်ထိုမြို့မှ ပဲခူးမြို့သို့ကြွတော်မူခဲ့ပါသည်။ ပဲခူးမြို့သို့ရောက်လျှင် ပဲခူးမြို့၌ကြိုတင်ရောက်ရှိ၍ ပရမတ္ထသံခိပ်အသင်းစသောအသင်းအဖွဲ့များ တည်ထောင်ပြီးဖြစ်သော လယ်တီဦးဝဏ္ဏိတကိုယ်တော်က တပည့်များခြံရံကာကြိုဆိုလေသည်။ လယ်တီဆရာတော်ဘုရားကြီးသည် ပဲခူးမြို့၌ခေတ္တသီတင်းသုံးနေစဉ် ပဲခူးမြို့ တိုင်းရင်းသား ကျောင်းကြီး၌ သက္ကရာဇ် ၁၂၈၂–ခုနှစ်၊ တပို့တွဲလဆန်း ၁၅–ရက် (အေဒီ–၂၂၊ ဖေဖော်ဝါရီလ၊ ၁၉၂၁–ခုနှစ်)နေ့ညတွင် 'နိဗ္ဗာန်တရားတော်ကြီး' ကိုဟောကြားတော်မူခဲ့ပါသည်။

## ကဝမြို့သို့

ကဝမြို့[*၁]သို့ဆက်လက်ကြွသွားတော်မူကာ ငါးထပ်ကြီးဘုရားပရိဝုဏ်အတွင်း၌ ဆောက်လုပ်အပ်သော ယာယီစံကျောင်းမှာသာလျှင်သီတင်းသုံးနေတော်မူပါသည်။ ဤသို့ ကဝမြို့၌ လယ်တီဆရာတော်ဘုရားကြီး ခေတ္တသီတင်းသုံးတော်မူခိုက် သက္ကရာဇ် ၁၂၈၂–ခုနှစ်၊ တပေါင်းလဆန်း ၁၅–ရက် (အေဒီ–၂၃၊ မတ်လ၊ ၁၉၂၁–ခုနှစ်)တွင် ထားဝယ်မြို့မှသံဃာတော်များက ဝိနည်းဆိုင်ရာပုစ္ဆာ(၁၀)ချက်တို့ကို ဖြေဆိုတော်မူခဲ့ပါသည်။[*၂] ထို့ပြင် ကဝမြို့လူထု၏တောင်းပန်မှုကြောင့် ညစဉ်တရားပွဲများကိုလည်းပြုလုပ်တော်မူခဲ့ပါသည်။[*၃]

ဤခရီးစဉ်အတွင်း သထုံမြို့ ရစ်ကန်ဆရာတော်ကြီးက 'မိမိရပ်ရွာဖြစ်သော ရစ်ကန်ကြီးရွာ[*၄]သို့ဝင်ရောက်၍ တစ်ညမျှကျိန်းစက်တော်မူပါဦးဘုရား' ဟု ပင့်လျှောက်ထားသည့်အတွက် ရစ်ကန်ရွာသို့ ဝင်ရပါသည်။ ထိုစဉ်က ရစ်ကန်ရွာသူရွာသားများ လယ်တီဆရာတော်ဘုရားကြီးထံ တရားနာယူကြပြီး ကျွဲသားနွားသားရှောင်ကြဉ်ကြောင်း ကတိပြုကြသူလည်း အများအပြားရှိကြလေသည်။[*၅]

## ဆပညာသမဝါခံဆိုတော်မူခြင်း

လယ်တီဆရာတော်ဘုရားကြီး စကျွတော်ကိုဆေးဝါးကုသလျက် အောက်ပြည်အောက်ရပ်တစ်ခွင်၌ နှစ်ရှည်သီတင်းသုံးနေတော်မူပြီးနောက် သက္ကရာဇ် ၁၂၈၃–ခုနှစ်၊ ဝါတွင်းကာလ (အေဒီ ၁၉၂၁–ခုနှစ်၊ ဩဂုတ်လ)သို့ရောက်ရှိသောအခါ အထက်ပိုင်းမှ ရဟန်းရှင်လူပရိသတ်တပည့်အများ၏ပန်ကြားလျှောက်ထားမှုကိုငဲ့ညှာသောအားဖြင့် အထက်ပိုင်းသို့ပြန်လည်ကြွချီတော်မူပြီး၊ စစ်ကိုင်းတောင်ရိုး ဇေတဝန်အောက်ဆေးတိုက် လယ်တီစံကျောင်း၌ (၅၆)ကြိမ်မြောက်

---

[*၁] ပဲခူးတိုင်း၊ ပဲခူးခရိုင်၊ ကဝမြို့နယ်အတွင်းတည်ရှိသည်။

[*၂] လယ်တီဆရာတော်ဘုရားကြီး၏ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်ကျမ်းကြီး၊ ပထမတွဲ။ (စာမျက်နှာ ၂၂၉–၂၄၃)။

[*၃] လယ်တီဆရာတော်ကြီး၏ လယ်တီဟောကိန်းတရားစာ။ (စာမျက်နှာ ၉၂–၁၁၆)ကိုကြည့်ပါ။

[*၄] ပဲခူးတိုင်း၊ ပဲခူးခရိုင်၊ ကဝမြို့နယ်အတွင်းတည်ရှိသည်။

[*၅] ရစ်ကန်ကြီးရွာဇာတိဖြစ်သော စာရေးဆရာကြီး(ဦး)ချစ်စံဝင်း၏ ပြောပြချက်ဖြစ်သည်။

ဆပညာသမဝါကို ကပ်ဆိုတော်မူခဲ့ပါသည်။ ဤဝါသည် စစ်ကိုင်းတောင်ရိုး လယ်တီစံကျောင်း၌ နောက်ဆုံးအကြိမ်ကပ်သောဝါဖြစ်ပါသည်။

ဤနှစ် စစ်ကိုင်းတောင်ရိုး ဇေတဝန်ချောင်၌ ဆရာတော်ဘုရားကြီးဝါကပ်သီတင်းသုံးနေတော်မူစဉ် ဘုန်းတော်ကြီးဦးနု[၁]–ဟုအရပ်ကခေါ်ဝေါ်ကြသော ဦးပညာသီဟဘွဲ့ခံ ရဟန္တာတမျှအကျင့်သီလ၌ထင်ရှားသော ပခုက္ကူအရပ်မှ ရဟန်းကြီးတစ်ပါးသည်လည်း ဆရာတော်ဘုရား၏နိသည်းများယူလျက် စစ်ကိုင်းတောင်ရိုး၌ ဝါကပ်သီတင်းသုံးနေတော်မူခဲ့ပါသည်။ ဝါတွင်းအခါ၌ လယ်တီဆရာတော်ဘုရားကြီးသည် တောင်ရိုးရှိ ရဟန်းရှင်လူသီလရှင်ပရိသတ်အများတို့အားနေ့စဉ်တရားပွဲပြုလုပ်၍ တရားဟောကြားတော်မူခဲ့ပါသည်။

### အသားစားမှုပြဿနာ

သက္ကရာဇ်၁၂၈၃–ခုနှစ်၊ တော်သလင်းလဆန်း ၈–ရက် (အေဒီ–၉၊ စက်တင်ဘာလ၊ ၁၉၂၁–ခုနှစ်) တွင် ဝိနိစ္ဆယမဏ္ဍိုင်ကြီးတစ်ဆူဖြစ်တော်မူသော လယ်တီဆရာတော်ဘုရားကြီးထံတော်သို့ ပြည်မြို့နေ တပည့်ဒါယကာမောင်ရွှေထင်၏ 'အသားစားမှုနှင့်စပ်၍ မြတ်စွာဘုရား၏အလိုတော်သို့သက်,မသက်' စသည့်အမေးပုစ္ဆာပြဿနာဆိုက်ရောက်လာပါသည်။ လယ်တီဆရာတော်ဘုရားကြီးသည် ရှေးယခင်အခါကလည်း ကာလကတ္တားမြို့၌ ပညာသင်ယူနေသူ မောင်ချစ်ဘေမေးလျှောက်၍ အသားစားမှုပြဿနာကို ဖြေဆိုတော်မူခဲ့ပြီးဖြစ်သည်။[၂]

ယခု ဤအကြိမ်မေးလျှောက်လာသော မောင်ရွှေထင်၏အမေးကား အလွန်လေးနက်လှပေသည်။ မြတ်စွာဘုရားရှင်သည် အသားစားမှုကိုခွင့်ပြုထားတော်မူခြင်းမှာ သာသနာတော်ထမ်းအမျိုးမျိုးသောရဟန်းတို့၏အလိုသို့ လိုက်လျောငဲ့ညှာတော်မူ၍သာ ဝေနေယျဇ္ဈာသယအားဖြင့်သာသနာအရှည်တည်စေလိုသဖြင့် သင့်လျော်အောင်မြော်ရှု၍ ခွင့်ပြုခြင်းဖြစ်ပေရာသည်။ အကယ်စင်စစ် မြတ်စွာဘုရားရှင်၏အလိုတော်ကျအဇ္ဈာသယကား အဘယ်သို့နည်း–ဤအချက် အလေးအနက်ကိုသိလိုကြောင်း မေးလျှောက်ထားခြင်းဖြစ်သည်။ ဤအမေးမျိုးသည်ကား ရှေးရှေးသောဘုရားရှင်၏အလို၌လိမ္မာတော်မူကြသော ဗုဒ္ဓမတ္တညုအဋ္ဌကထာပြုဆရာတော်ဘုရားကြီးတို့ ဖြေဆိုတော်မူရမည့်အမေးမျိုးသာဖြစ်ချေသည်။ ယခု လယ်တီဆရာတော်ကြီးသည်ကား ဘုန်းကံပါရမီအလျောက် ဖြေဆိုခွင့်ရတော်မူလေရာ ဆရာတော်ဘုရားကြီးဖြေဆိုတော်မူပုံအနှစ်ချုပ်ကို ထုတ်နုတ်တင်ပြရသော်–

ဤပါဠိတော်၌[၃] နောက်ဆုံးစကားမြွက်ကြားတော်မူရာ အနုမောဒနာဝါကျကို ထောက်၍ 'ရွာနီးကျောင်းနေမှု, နိမန္တနဘတ်ကိုသုံးဆောင်မှု, ဂဟပတိသင်္ကန်းကို

---

[၁] လယ်တီဦးလှပိုင်၏ ပုခန်းသာသနာဝင်။ ၁၉၈၁–ခုနှစ်။ (စာမျက်နှာ–၈၈)။

[၂] လယ်တီဆရာတော်ကြီး၏ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်ကျမ်းကြီး၊ ပထမတွဲ။ (စာမျက်နှာ–၉၀)သို့ကြည့်ပါ။

[၃] နိဒါနဝဂ္ဂသံယုတ်ပါဠိတော် ကဿပသံယုတ်လာ အရှင်မဟာကဿပမထေရ်အား ပစ္စည်းလေးပါးခွင့်ပြုခြင်းဆိုင်ရာ ပါဠိတော်ကိုဆိုလိုပါသည်။

ဝတ်ရုံမှုတို့၌ ခွင့်ပြုတော်မူခြင်းသည် မုချအားဖြင့် မြတ်စွာဘုရားအလိုတော်ဖြင့် ခွင့်ပြုတော်မူသည်မဟုတ်။ ရှင်မဟာကဿပမထေရ်မြတ်အား သနားတော်မူခြင်း ပြင်းစွာရှိတော်မူ၍ ခွင့်ပြုတော်မူရခြင်းဖြစ်သည်’ဟု စင်စစ်ကွဲပြားထူးခြားလှပေသည်။

ဤသို့ဆိုခဲ့သော ကဿပသံယုတ်ပါဠိတော်ကြီးဖြင့် ရှေးဦးစွာ အစပထမ၌ ခွင့်ပြုအပ်သော ပိဏ္ဍိယာလောပအစရှိသောပစ္စည်းလေးပါးနှင့် နောက်ထပ်တစ်ဖန် ခွင့်ပြုတော်မူအပ်သော အတိရေကပစ္စည်းလေးပါးသည် မြတ်စွာဘုရားသခင် ခွင့်ပြုတော်မူသော အနုညာတပစ္စည်းအနေအားဖြင့် တူကြသော်လည်း သဘောအားဖြင့် မုချမတူနိုင်ချေ။ ရှေးဦးစွာသော သလ္လဟုကပစ္စည်းတို့ကိုသာ မြတ်စွာဘုရားသခင် ခွင့်ပြုတော်မူလိုရင်းအမှန်ဖြစ်၏။

အတိရေကလာဘတည်းဟူသော ပစ္စည်းလေးပါးတို့ကိုမူကား သာသနာတော်ထမ်း အမျိုးမျိုးသောရဟန်းတို့၏အလိုသို့ လိုက်လျောငဲ့ညှာတော်မူ၍သာ ဝေနေယျဖ္ဖာသယအားဖြင့် သာသနာအရှည်တည်စေလိုသဖြင့် သင့်လျော်အောင် မျှော်ရှု၍ ခွင့်ပြုတော်မူပေရာသတည်း။ အနုညာတပစ္စည်းနှစ်ပါး၏ကွဲပြားထူးထွေကြောင်း ကောင်းကောင်းကြီးထင်ရှားလှပေ၏။

ထိုသို့ မြတ်စွာဘုရားကြီးခွင့်ပြုတော်မူအပ်သော အနုညာတပစ္စည်းလေးပါးသည် အလိုတော်ကျအနုညာတပစ္စည်း, ဝေနေယျဖ္ဖာသယအနုညာတပစ္စည်းဟု နှစ်ထွေကွဲပြားထူးခြားလေသောကြောင့် ‘မြင်ကြား, ကြားခြင်း, ယုံမှားခြင်းဟူသော အစွန်းသုံးပါးမှကင်းလွတ်လျှင် အပ်၏’ဟုခွင့်ပြုတော်မူသော အနုညာတအသားစားအမှုသည် စင်စစ်အားဖြင့် မြတ်စွာဘုရားကြီး၏အလိုတော်ကျအနုညာတမဟုတ်ချေ။ ဝေနေယျဖ္ဖာသယသို့လိုက်လျောငဲ့ညှာတော်မူသောအားဖြင့် ခွင့်ပြုရသောအနုညာတ တစ်မျိုးသာဖြစ်၏။

ချဲ့ဦးအံ့။ သာသနာထမ်းရဟန်းတို့မည်သည်မှာ အကယ်၍ အသားစားမှုကို အာပတ်တပ်၍ ပညတ်တော်မူပါလျှင်–

၁။ မင်း, ပုဏ္ဏား, သူဌေး, သူကြွယ်, ကုန်သည်, ဆင်းရဲသားဟူ၍ လေးပါးသော အမျိုးအနွယ်အလာ ဒါယကာ,ဒါယိကာမတို့ ချက်ပြုတ်အပ်ပြီးသော ခဲဖွယ်ဘောဇဉ်ကိုသာ မှီခိုသုံးဆောင်ရသောကြောင့် သူတစ်ပါးကိုမှီ၍ အသက်မွေးမြူရသော ပရဒတ္တူပဇီဝီပုဂ္ဂိုလ်မျိုးဖြစ်သည်လည်းတစ်ကြောင်း၊

၂။ အမျိုးလေးပါးတို့တွင်လည်း အသားစားမှုမှကင်းရှင်းသော အမျိုးကိုမူကား အလွန်ရနိုင်ခဲသည်လည်းတစ်ကြောင်း၊

၃။ မြို့ရွာသူတို့လောင်းလှူအပ်သောဆွမ်း,ဆွမ်းဟင်းလျာတို့၌ အသားစမဲဟင်းလျာတို့သည် ပါဝင်ရောယှက်ခြင်းမှကင်းပါလေ၏လော, မကင်းပါလေသလော

ဟု တွေးတောယုံမှားချက်ကြီးကို တားဆီးဖျောက်ဖျက်ခြင်းငှာ ခဲယဉ်းလှသည် လည်းတစ်ကြောင်း–

ဤသုံးပါးသောအကြောင်းတို့ကြောင့် ကလျာပဋိသမ္ဘဒါနိုင်ရုံသော စင်ကြယ်သော ဆွမ်းခဲဖွယ်ဘောဇဉ် အနည်းငယ်မျှကိုပင် မရနိုင်ရှိကြလေရာ၏။ အာပတ်ကင်းလွတ်နိုင်သော အစာအာဟာရမျိုးကိုမရသဖြင့် မြင့်မြတ်သောဘဝမှ ဆုံးရှုံးပျက်စီးကြလေကုန်ရာ၏။

အလွန်တွေ့ကြုံခဲလှစွာသော သာသနဓမ္မဗုဒ္ဓုပ္ပါဒဒုလ္လဘပွဲတော်ကြီးနှင့် တွေ့ကြုံရပါလျက် ဆွမ်းဘောဇဉ်အတွက်နှင့် ခဲခက်ကျပ်တည်းမှုကြောင့် အလွဲကြီးသွေလွဲကြကုန်၏ဟု အလွန့်အလွန်မကင်းနိုင်ရာ မလွဲသာမဖယ်သာသောအကြောင်းတို့ကို ကောင်းစွာထောက်မြော်၍ အနာဂတံသဉာဏ်တော်ဖြင့် ရှုကြည့်သိမြင်တော်မူသဖြင့် သနားတော်မူလှ၍သာ အသားစားမှုအာပတ်ကို ပညတ်တော်မူချေသည်။ အလိုတော်ကျ အဖျှာသယအတိုင်း ခွင့်ပြုတော်မူရသည်မဟုတ်ပေ။

အကယ်၍ တိကောဋိပရိသုဒ္ဓဖြစ်သော သားငါးကိုစားသောက်စေမှု ခွင့်ပြုတော်မူရသော်လည်း ပစ္စဝေက္ခဏာဆင်ခြင်၍ သုံးဆောင်စားသောက်ရလိမ့်မည်၊ အဘယ်သို့ သုံးဆောင်စားသောက်ရမည်နည်း။

အဓွန့်ရှည်သောခရီးသို့သွားကြရသော လင်မယား, သားငယ် သုံးယောက်တို့သည် လမ်းခရီး၌အစာပြတ်သဖြင့် မတတ်နိုင်ဘဲ ခွေလဲနုံးလျှဖြစ်နေကြရာတွင် ရှေ့ကိုလည်းမလှမ်းနိုင် နောက်ကိုလည်းမပြန်နိုင် အကြံခက်လှသဖြင့် မိမိတို့သားငယ်၏အသားကို သတ်ဖြတ်၍စားသောက်ကြရာ၌ အရသာ၏ ကြည်လင်မြိန်ရှက်ဖွယ်အရေးနှင့်ဝေးစွ၊ မျက်ရည်စီးယိုမိုတ်၍သာမျိုရဘိသကဲ့သို့ ထို့အတူ အနမတဂ္ဂသံသရာဝယ် ရှည်လျားလှစွာ ခန္ဓာပေါင်းအနန္တဖြစ်ခဲ့ကြရသဖြင့် မိဘဆွေမျိုးဘိုးဘွားညာတိဖြစ်ခဲ့ကြရဖူးလှလေသည်ဖြစ်ရကား ထိုဆွေးဟောင်းမျိုးဟောင်းများတို့၏အသားတို့ကို စားသောက်ကြရကုန်သည်ရှိသော် ပျော်ရွှင်စွာစားသောက်ခြင်း၌ အလျှင်းပင်မလျော်၊ လျှာ၌ဖြစ်ပေါ်လာသော သုခသောမနဿဝေဒနာကို မဖြစ်စေပြီဟူသောစိတ်ဖြင့် သနားခြင်းကရုဏာတရားအာရုံထား၍ မလွဲသာသောစိတ်ဖြင့် အာလောပေ,အာလောပေ–လုပ်တိုင်းလုပ်တိုင်း မရှိုင်းစိုင်းသောစိတ်ဖြင့် ဤပြဆိုခဲ့သောဥပမာအတိုင်း ညီညွတ်စွာဆင်ခြင်သဖြင့် စားသောက်သုံးဆောင်ကြရသည်။[*၁]–ဟူ၍ဖြေဆိုတော်မူခဲ့ပါသည်။

---

*၁ လယ်တီဆရာတော်ကြီး၏ လယ်တီဝိနိစ္ဆယသူစိ။ (စာမျက်နှာ ၁၃၃–၁၃၅၊ ၁၃၈)။

**ဂျီစီဘီအေအသင်းကြီး*[၁]၏ နဝမကွန်ဖရင့်**

လယ်တီဆရာတော်ဘုရားကြီး စစ်ကိုင်းတောင်ရိုး ဇေတဝန်ချောင်၌ သီတင်းသုံးနေတော်မူစဉ်အတွင်း မန္တလေးမြို့၌ ၁၂၈၃–ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် ၅–ရက် (အေဒီ–၂၁၊ အောက်တိုဘာလ၊ ၁၉၂၁–ခုနှစ်)တွင် သမိုင်းမော်ကွန်းတင်ရမည်ဖြစ်သော ဂျီစီဘီအေအသင်းကြီး၏နဝမကွန်ဖရင့်ခေါ် နဝမမြောက်အစည်းအဝေးကြီးကို မန္တလေးမြို့ တာရဲတန်းရပ်၊*[၂] ပွဲစားကြီးဦးစိုးမင်း၏ 'ငါဟဲ့' ဆန်စက်ဝင်းကြီးနေရာ၌ကျင်းပခဲ့သည်။*[၃]

ထိုကွန်ဖရင့်ကြီး၏ ပထမနေ့သဘာပတိသည် နေမျိုးသိဒ္ဓိကျော်ထင်ဘွဲ့ရ ဒီပဲယင်းဝန်ထောက်ကြီးဦးမြဖြစ်သည်။ နောက်နေ့များတွင် ဦးချစ်လှိုင်ကပင် သဘာပတိလုပ်သွား၏။ ပထမနေ့ကွန်ဖရင့်၌ ဦးမြ၏သဘာပတိမိန့်ခွန်းကို မြန်မာပညာရှိဦးသန့်စင်ကဖတ်ကြားရာ သဘောကျဖွယ်ကောင်းသောအချက်များ၌ ပရိသတ်ကြီးကလက်ခုတ်သြဘာပေးရာ 'ငြိမ်တော်မူကြပါ၊ ငြိမ်တော်မူကြပါ'ဟူ၍ အော်လံကြီးများဖြင့်ထိန်းသိမ်းရသည်။

နဝမကွန်ဖရင့်ကြီးကို သီတင်းကျွတ်လပြည့်ကျော် ၅–ရက်နေ့မှ ၈–ရက်နေ့ (အေဒီ ၂၁–၂၄၊ အောက်တိုဘာလ၊ ၁၉၂၁–ခုနှစ်)အထိကျင်းပခဲ့၏။ ထိုကွန်ဖရင့်ကြီးတွင် အမှုဆောင်သစ်များအဖြစ် ဦးချစ်လှိုင်ကိုဥက္ကဋ္ဌ၊ ဝတ်လုံတော်ရဦးပု၊ ဝတ်လုံတော်ရဦးဘစီ၊ ဦးဘဖေ၊ အမ်အေဦးမောင်ကြီး၊ ဝတ်လုံတော်ရဦးကွန်း၊ ဝတ်လုံတော်ရဦးသိမ်းမောင်၊ နယူးဘားမားအယ်ဒီတာဦးဘလှိုင်၊ မန္တလေးဦးဘဦး၊ မြန်မာ့အလင်းဦးစိန်၊ စီပီဦးခင်မောင်–အစရှိသူများကို အမှုဆောင်အဖြစ် ရွေးကောက်တင်မြှောက်ကြလေသည်။*[၄]

အထက်၌ပြဆိုခဲ့ပြီးသော ဂျီစီဘီအေအမှုဆောင်လူကြီးမင်းများသည် နဝမကွန်ဖရင့်အစည်းအဝေးကြီးပြီးစီးသောအခါ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး စစ်ကိုင်းတောင်ရိုး ဇေတဝန်ဆေးတိုက် စံကျောင်း၌ သီတင်းသုံးလျက်ရှိသည့်သတင်းကိုကြားသိကြလျှင် ဆရာတော်ဘုရားကြီး၏ကျန်းမာရေးအခြေအနေကို မေးမြန်းလျှောက်ထားကြရန်အတွက် ဆရာတော်ဘုရားကြီးထံတော်သို့ ဦးတိုက်ရောက်ရှိခဲ့ကြသည်။

လယ်တီဆရာတော်ဘုရားကြီးသည် ဦးချစ်လှိုင်အမှူးရှိသော ဒါယကာအပေါင်းတို့အား ရှေ့တော်သို့ခေါ်ယူပြီး လာရင်းကိစ္စကိုမေးမြန်းတော်မူပါသည်။ ဒါယကာဦးချစ်လှိုင်တို့က မိမိတို့ဂျီစီဘီအေအသင်း၏ နဝမကွန်ဖရင့်အကြောင်းကိုလျှောက်ထားကာ၊ မိမိတို့အနေဖြင့် မြန်မာပြည်ကို

*[၁] ဂျီစီဘီအေ= GCBA = General Council of Burmese Associations. 'မြန်မာပြည်လုံးဆိုင်ရာ မြန်မာအသင်းချုပ်ကြီး' –ဖြစ်သည်။

*[၂] မန္တလေးမြို့အနောက်ပြင် မဟာအောင်မြေမြို့နယ်ရှိ (၈၀)လမ်း၊ (၇၉)လမ်းနှင့် (၃၇)လမ်း၊ (၃၈)လမ်းအကြားအကွက်အမှတ်(၆၅၃)ဖြစ်သည်။ ရေဝင်း–ဟုလည်းခေါ်ကြသည်။

*[၃] နေထွတ်၏မန္တလေးအဘိဓာန်။ ၁၉၉၉–ခုနှစ်။ (စာမျက်နှာ–၅၉)။

*[၄] ဦးလေးမောင်၏မြန်မာ့နိုင်ငံရေးသမိုင်း၊ ပထမတွဲ။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၁၉၇၃–ခုနှစ်။ (စာမျက်နှာ ၁၈၄–၂၁၈)။



စစ်ကိုင်းတောင်ရိုး ဧရာဝတီမြစ်ကမ်းအနီးရှိ ဇေတဝန်အောက်ဆေးတိုက်ရှုခင်း



ဝန်ထောက်ကြီးဦးမြ



ဦးချစ်လှိုင်

ကိုယ်ပိုင်အုပ်ချုပ်ရေး(Home Rule)ပေးသည်အထိ ဗြိတိသျှအစိုးရအားတောင်းဆိုနေမည်ဖြစ်ကြောင်း လျှောက်ထားကြသည်။ ထိုအခါ လယ်တီဆရာတော်ဘုရားကြီးက– 'မောင်ချစ်လှိုင်၊ မောင်ဘဘေတို့ကလည်း ဟုမ်းမရူးတောင်းလာကြတာကိုးကွဲ့၊ မင်းတို့မှာလည်း ဒီဟုမ်းမရူးဟာ ဗမာပြည်နဲ့ထိုက်တန်တယ်၊ ကောင်းတယ်လို့ဆိုပီးတောင်းတာပေါ့၊ ဟုတ်ကဲ့လားကွဲ့'ဟု မေးတော်မူလျှင် ဦးချစ်လှိုင်က 'မှန်လှကြောင်းပါဘုရား' လျှောက်ထားကြလေသည်။

ဆရာတော်ဘုရားကြီးက ဆက်လက်၍ 'ပုထုဇဉ်တို့အတွက်မှာတော့ ရသတဏှာကြီးဟာ ဟုမ်းမရူးပဲပေါ့ကွယ်၊ သည်းခြေကြိုက်အစာပေါ့'ဟုမိန့်တော်မူပြီးလျှင် ရသငါးပါး၌ ရသတဏှာသည် အလွန်အရေးကြီးပုံကို အကြောင်းထုတ်ဖော် ပြောကြားဆုံးမသောအားဖြင့် ကေကနိပါတ၊ ဝါတမိဂဇာတ်လာ မြက်ချိုမက်သောသမင်ပျိုဝတ္ထုကိုသာဓကဆောင်၍ ဟောကြားတော်မူခဲ့ပါသည်။*၁

**မိုးညှင်းကိုယ်တော်လာရောက်ကန်တော့ခြင်း**

သက္ကရာဇ်၁၂၈၃–ခုနှစ်၊ သီတင်းဝါလကျွတ်ချိန် (အေဒီ ၁၉၂၁–ခုနှစ်၊ အောက်တိုဘာလ)တွင် မုံရွာမြို့အနီး မြေနဲတောရ၌ ဆရာတော်ဘုရားကြီး၏အမိန့်အတိုင်း ဆယ်နှစ်တိုင်တိုင် အဓိဋ္ဌာန် ပါရမီဖြည့်ကျင့်ဆောက်တည်နေသော မိုးညှင်းကိုယ်တော်အရှင်သုမနသည် အဓိဋ္ဌာန်ပြီးမြောက်ခရီးရောက်ခဲ့ပြီဖြစ်၍ ကျေးဇူးရှင်ဆရာတော်ဘုရားကြီး၏ခြေတော်အစုံကို ဦးတိုက်ခဲ့လေသည်။

ဆရာတော်ဘုရားကြီးသည် ဤသို့ ဆယ်နှစ်တိုင်တိုင်စကားမပြော၊ တရားမဟော၊ မိမိ၏ အမိန့်စကားကို မြေဝယ်မကျနားထောင်၊ တရားကိုသာဖိ၍အားထုတ်နေခဲ့သော မိုးညှင်း ကိုယ်တော်ကို ကြည့်ရှုတော်မူ၍ လွန်စွာဝမ်းသာဖြစ်တော်မူပါသည်။

ထို့ပြင် မိုးညှင်းကိုယ်တော်က တရားအားထုတ်ရာ၌ အမှားစင်အမှန်မြင်ပုံ၊ ဉာဏ်ထင်လင်းပုံထင်ပုံ၊ အပျက်မြင်ပုံ၊ အအေးဓာတ်အငြိမ်းဓာတ်မြင်ပုံရောက်ပုံတို့ကို လျှောက်ထားသောအခါ ဆရာတော်ဘုရားကြီးက သီလိုသမျှထပ်မံပြီးမေးမြန်းတော်မူပါသည်။ မေးမြန်းသော အတိုင်း အဖြေမှန်တို့ကိုကြားရတော်မူပါသဖြင့် 'ထူးတဲ့ပုဂ္ဂိုလ်၊ တကယ်ချီးကျူးထိုက်တဲ့ပုဂ္ဂိုလ်၊ တစ်မိုးအောက်တစ်ယောက်ပဲ၊ ဇမ္ဗူတလူပဲ၊ ကမ္ဘာမှာရှာမှရှားတဲ့အာဇာနည်ပဲ၊ ရဟန်းကိစ္စပြီးမြောက် ခရီးရောက်ပြီကွဲ့'စသည်ဖြင့် ဝမ်းမြောက်ဝမ်းသာ အားရပါးရကြီးချီးကျူးပြီးလျှင်–

> 'ကိုင်း၊ ငါတို့ကိုယ်စား ကမ္ဘာကိုသာသနာပြုပေတော့၊ ဝိပဿနာတရားကြီး ကို ယခုအားထုတ်ပုံအားထုတ်နည်းအတိုင်း ရဟန်းရှင်လူတို့အားဟောကြားပြသ ဆုံးမပေတော့ဗျာ'

ဟု ပုံနှိပ်ပြီးဖြစ်သော ဒီပနီကျမ်းစာတို့ကို ရှိသမျှအားလုံး တစ်အုပ်မကျန်ချီးမြှောက်တော် မူလေသည်။

---

*၁ ဤအချက်မှာ လယ်တီဦးဝဏ္ဏိတ(ဆရာကြီးဦးလှတင်)၏ ပြောပြချက်ဖြစ်သည်။

မိုးညှင်းကိုယ်တော်သည် လယ်တီဆရာတော်ဘုရားကြီး၏ခြေဖဝါးကို ဦးထိပ်နှင့် ထိကာ ထိကာ အထပ်ထပ်အကြိမ်ကြိမ်ရှိခိုးပြီးလျှင် 'အပြစ်ကြီးအပြစ်ငယ်များ ဘဝသံသရာကပါလာပါလျှင် သည်းခံကျေအေး အပြစ်မပေးဘဲ ခွင့်လွှတ်တော်မူပါဘုရား၊ ဆယ်နှစ်အားထုတ်ခဲ့သောတရားဖြင့် ကျေးဇူးရှင်ကြီးအားပူဇော်ပါ၏ဘုရား' ဟု လျှောက်ထားပြီးလျှင် လက်အုပ်ချီ ရှိခိုးဦးတင်ကာ ဆုတ်ခွာပြီးလျှင် မမြင်ကွယ်ရာရောက်မှ ခြေဦးလှည့်ပြန်လာခဲ့လေသည်။[*၁]

**ကောနုပ်ပုစ္ဆာ**

သက္ကရာဇ် ၁၂၈၃–ခုနှစ်၊ နတ်တော်လဆန်း ၂–ရက် (အေဒီ–၁၊ ဒီဇင်ဘာလ၊ ၁၉၂၁–ခုနှစ်) စစ်ကိုင်းတောင်ရိုး ဇေတဝန် မဟာလယ်တီစကြံတိုက်ကျောင်းတွင် လယ်တီဆရာတော်ဘုရားကြီး ဝါကပ်သီတင်းသုံးနေတော်မူစဉ် မော်လမြိုင်မြို့ ကောနုပ်တိုက်နေ သံဃာတော်အပါးခြောက်ဆယ်ကျော်တို့က အောက်ပါပုစ္ဆာကိုမေးလျှောက်လာကြပါသည်။

၁။ အချို့သောသံဃာတော်တို့က 'ပုရေ ဥပသမ္ပန္နေန ပစ္ဆာဥပသမ္ပန္နော အဝန္ဒိယော'–ဟူသောပါဠိကိုထောက်သဖြင့် ဝါငယ်သောရဟန္တာပုဂ္ဂိုလ်သည် အာသဝေါကုန်ခမ်းသော်လည်း ဝါငယ်သည့်အတွက်ကြောင့် အာသဝေါတရားမကုန်သေးသော ဝါကြီးသောပုထုဇဉ်ရဟန်းကို ရှိသေမြတ်နိုး ရှိခိုးဦးချကန်တော့ရမည်။

၂။ အချို့သောသံဃာတော်တို့က 'အာဟုနေယျော ပါဟုနေယျော'ဟူသော ပါဠိကိုထောက်သဖြင့် ပုထုဇဉ်ရဟန်းက ဝါကြီးသော်လည်း အာသဝေါတရားမကုန်သေးသောကြောင့် အာသဝေါတရားကုန်ပြီးသော ဝါငယ်သောရဟန္တာပုဂ္ဂိုလ်ကို ရှိသေမြတ်နိုး ရှိခိုးဦးချကန်တော့ရမည်။

ဤသို့ ဝိဝါဒနှစ်မျိုးကွဲပြားနေသည်ကို ဘုရားတပည့်တော်တို့အား ကရုဏာရှေ့ထား၍ ဖြေကြားပေးသနားတော်မူပါမည့်အကြောင်း ရှိသေစွာလျှောက်ထားပါသည် ကျေးဇူးတော်ရှင်ဆရာတော်မြတ်ကြီးဘုရား–ဟူ၍ဖြစ်ပါသည်။[*၂]

အထက်ပါပုစ္ဆာနှင့်စပ်၍ ဆရာတော်ဘုရားကြီးက ဖြေကြားတော်မူသည်မှာ–

'အဖြေကား– ဝါငယ်သောရဟန္တာပုဂ္ဂိုလ်က အာသဝေါတရားကုန်ခမ်းသော်လည်း ဝါငယ်သည့်အတွက်ကြောင့် အာသဝေါတရားမကုန်သေးသော ဝါကြီးသော ပုထုဇဉ်ရဟန်းကို ရှိသေစွာမြတ်နိုး ရှိခိုးဦးချကန်တော့ရမည်ဟူသောအယူဝါဒသည်သာ သင့်မြတ်သည်'–ဟူ၍ဖြစ်ပါသည်။[*၃]

---

[*၁] နေရှင်းဦးကောဝိဒ၏ မိုးညှင်းမဟာထေရာပဒါန်။ ၁၃၃၃–ခုနှစ်။ (စာမျက်နှာ–၁၈၀)။

[*၂] လယ်တီဆရာတော်ကြီး၏ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်ကြီး၊ ပထမတွဲ။ (စာမျက်နှာ ၁၅၈–၁၅၉)။

[*၃] ယင်း။ (စာမျက်နှာ–၁၅၉)။

## တက္ကသိုလ်၏ ပထမဆုံးဘွဲ့နှင်းသဘင်

ရန်ကုန်မြို့ရှိ ရန်ကုန်ကောလိပ်၊ ဂျပ်ဆင်ကောလိပ်တို့မှ ကျောင်းသားများဦးဆောင်၍ သက္ကရာဇ်–၁၂၈၂ (အေဒီ–၁၉၂၀)ခုနှစ်၌ တက္ကသိုလ်သပိတ်ကြီးကို စတင်ပြုလုပ်ရာမှ တစ်တိုင်းပြည်လုံး၏ကျောင်းသားအရေးတော်ပုံအဓိကရုဏ်းကြီးအသွင်သို့ ဆိုက်ရောက်သွားခဲ့သည်။ သပိတ်မှောက်ရခြင်းအကြောင်းမှာ အင်္ဂလိပ်အစိုးရက မြန်မာနိုင်ငံ၏ပညာရေးကိုပိတ်ပင်နှိပ်ကွပ်မှုကြီးများသောကြောင့်ဖြစ်ပါသည်။ ကျောင်းသားများက သပိတ်မှောက်ကာ ကျောင်းမတက်ဘဲနေခဲ့သော်လည်း အာဏာပိုင်အဖွဲ့အစည်းအနေနှင့် သူတို့လက်အောက်ရှိ အရာထမ်းအမှုထမ်းများကို ခြိမ်းခြောက်၍ မင်းမှုထမ်းတို့၏သားသမီးများကို ကျောင်းများသို့ပြန်တက်နိုင်းခဲ့သည်။ ထို့ပြင် တက္ကသိုလ်ကိုလည်းဆက်ဖွင့်ခဲ့၏။ စာသင်နှစ်ကုန်သောအခါ ဘွဲ့ပေးရန်စီစဉ်လေသည်။

ထိုနှစ်ကျင်းပသောဘွဲ့နှင်းသဘင်မှာ ရန်ကုန်တက္ကသိုလ်၏ပထမဦးဆုံးဘွဲ့နှင်းသဘင်ကြီးဖြစ်သည်။ ထိုဘွဲ့နှင်းသဘင်ကြီးကို ရန်ကုန်မြို့ ရွှေတိဂုံဘုရားအနီးရှိ ဂျူဗလီဟောခန်းမဆောင်[*၁] တွင် ခမ်းနားသိုက်မြိုက်စွာကျင်းပမည်ဖြစ်သည်။ ထိုဘွဲ့နှင်းသဘင်၌ ဘီအေ(B.A.) ဘွဲ့ရသူ ၂၃–ဦး၊ ဘီအေဂုဏ်ထူးရသူ ၉–ဦး၊ ဘီအက်စ်စီ(B.Sc.)ဘွဲ့ရသူ ၆–ဦး၊ ဘီအက်စ်စီဂုဏ်ထူးရသူ ၁–ဦး၊ ဘီအယ်လ်(B.L.)ဘွဲ့ရသူ ၁၄–ဦးတို့ကို ဂုဏ်ထူးဆောင်ဘွဲ့ရသူပုဂ္ဂိုလ်နှစ်ဦးနှင့်တွဲဖက်၍ဘွဲ့နှင်းပေးအပ်မည်ဟု ကြေညာထားခဲ့သည်။[*၂]

ဤသို့ ဘွဲ့နှင်းသဘင်အခမ်းအနား၌ အထူးချီးမြှင့်ပေးအပ်မည့် ဂုဏ်ထူးဆောင်ဘွဲ့နှစ်ခုမှာ LL.D. Degree *(honoris causa)* ခေါ် စာပေပါရဂူဒေါက်တာဘွဲ့နှင့် Master of Arts *(honoris causa)* ခေါ် မဟာဝိဇ္ဇာတို့ပင်ဖြစ်သည်။

ထိုဘွဲ့နှစ်ရပ်တွင် M.A. ခေါ် မဟာဝိဇ္ဇာဘွဲ့ကိုလက်ခံရရှိသူမှာ ထိုစဉ်က ရန်ကုန်တက္ကသိုလ်အရှေ့တိုင်းစာပေပါမောက္ခလည်းဖြစ်၊ ကမ္ဘည်းကျောက်စာဝန်လည်းဖြစ်သော ချားလ် ဒူရွိုင်ဇဲလ် (Charles Duroiselle)[*၃] ဖြစ်သည်။ ဒူရွိုင်ဇဲလ်သည် ပြင်သစ်လူမျိုးဖြစ်ပြီး မြန်မာဘာသာစာပေ၊ ရှေးခေတ်မွန်စာပေ၊ ပါဠိစာပေတို့၌အထူးကျွမ်းကျင်နှံ့စပ်သော စာပေပညာရှင်ပုဂ္ဂိုလ်တစ်ဦးဖြစ်သည်။ သူသည် ရန်ကုန်မြို့ စိန်ပေါလ်ကျောင်း (St. Paul. ယခု အထက–၆၊ ဗိုလ်တထောင်)၌ မြန်မာ

*၁ ဤအဆောက်အအုံသည် အေဒီ ၁၈၉၅–ခုနှစ်က ဗိတိုရိယ(Victoria)ဘုရင်မကြီး၏ နန်းသက်အနှစ်(၆၀)ပြည့် စိန်ရတုအထိမ်းအမှတ် (Diamond Jubilee) အဖြစ် ဆောက်လုပ်ခဲ့ခြင်းဖြစ်သဖြင့် ဂျူဗလီဟော (Jubilee Hall) ဟုတွင်ခဲ့သည်။ တိုက်စိုး၏ ဂျူဗလီဟောမြင်ကွင်း။ ချင်းတွင်းစာပေ၊ ရန်ကုန်မြို့။ ၁၉၇၈–ခုနှစ်။ (စာမျက်နှာ–၁)။ ထိုအဆောက်အအုံ ယခုမရှိတော့ပြီ။

*၂ Report of the Excecutive Committee of the Council of the University of Rangoon. 1922. Page-15.

*၃ ပါမောက္ခဒူရွိုင်ဇဲလ်သည် မေမြို့ (ပြင်ဦးလွင်) ၌ အငြိမ်းစားကျောက်စာဝန်ဘဝဖြင့် နေထိုင်ရင်း ကွယ်လွန်ခဲ့ပါသည်။ P.M.T' Obituary: The Late Professor Charles Duroiselle. JBRS, Vol.34, Pt.I. 1951, Dec. Page 44-46.

စာပြဆရာ၊ နောင် ပါဠိစာပြဆရာလုပ်ခဲ့သည်။ သူဝါသနာထုံသောရှေးဟောင်းစာပေကို ဆက်လက်လေ့လာလိုက်စားရာ ပါဠိဘာသာ၌ထူးချွန်စွာတတ်မြောက်လာသည်။ ရန်ကုန်ကောလိပ်တွင် ပါဠိပါမောက္ခအဖြစ်တာဝန်ထမ်းဆောင်ပြီး ၁၉၁၂-ခုနှစ်၌ မန္တလေးမြို့တွင် ကျောက်စာဝန်တော်စိန်နိုအနားယူသော် ကျောက်စာဝန်အဖြစ်ပြောင်းရွှေ့တာဝန်ထမ်းရသည်။

LL.D. ခေါ် စာပေပါရဂူဂုဏ်ထူးဆောင်ဒေါက်တာဘွဲ့ကိုလက်ခံရရှိသောပုဂ္ဂိုလ်မှာ ကျေးဇူးတော်ရှင်လယ်တီဆရာတော်ဘုရားကြီးပင်ဖြစ်ပါသည်။ အေဒီ ၁၉၂၁-ခုနှစ်၊ နိုဝင်ဘာလ ၁၇-ရက်နေ့စွဲ၊ မော်ကွန်းထိန်းရုံး အမိန့်စာအမှတ်-၄၂ ဖြင့် ရန်ကုန်တက္ကသိုလ်မော်ကွန်းထိန်း C.W. Ainlby က လယ်တီဆရာတော်ဘုရားကြီးအား ဂုဏ်ထူးဆောင်စာပေပါရဂူဘွဲ့ပေးကြောင်း အောက်ပါအတိုင်းကြေညာချက်ထုတ်ပြန်ခဲ့ပါသည်။

OFFICE OF THE REGISTRAR, UNIVERSITY OF RANGOON.

Dated Rangoon, the 17th November 1921.

No. 42.- In exercise of the powers conferred by section 27 of the University of Rangoon Act, 1920, His Honour the Chancellor is pleased to confer on the Aggamahapandito Nyana Mahathera, Ledi Sayadaw, the Degree of Doctor of Letters of the Unversity of Rangoon, honoris causa in recognition of his eminent services to Pāli Scholarship.[*၁]

ဤသို့ စာပေပါရဂူဂုဏ်ထူးဆောင် ဒေါက်တာဘွဲ့ကို လယ်တီဆရာတော်ဘုရားကြီးအား ပေးအပ်ရခြင်းမှာ ယခုတည်ထောင်စဖြစ်သောတက္ကသိုလ်အနေဖြင့် သိက္ခာတက်ရန်ဖြစ်သည်။ ကျေးဇူးရှင်ဆရာတော်ဘုရားကြီးသည် ပါဠိစာပေပညာရှင်တိုင်းလေးစားသော လန်ဒန်မြို့ ပါဠိကျမ်းစာအသင်းကြီး (Pali Text Society)အတွက် အားထားရာဆရာတော်ကြီးဖြစ်ပေသည်။ ထို့ပြင် ကျမ်းများစွာကိုပြုစုတော်မူပြီး၊ ဘာသာရေးအသင်းအဖွဲ့များစွာ၏ ဦးစီးဦးဆောင်နာယကထေရ်ကြီးလည်းဖြစ်သည်။

ရန်ကုန်တက္ကသိုလ်အုပ်ချုပ်ရေးအဖွဲ့က လယ်တီဆရာတော်ဘုရားကြီးအား စာပေပါရဂူဘွဲ့ကို ဆက်ကပ်ရန်ဆုံးဖြတ်ပြီးသည့်အခါ သက္ကရာဇ် ၁၂၈၃-ခုနှစ်၊ တန်ဆောင်မုန်းလကွယ် (အေဒီ-၂၈၊ နိုဝင်ဘာလ၊ ၁၉၂၁-ခုနှစ်) ရက်နေ့တွင် ရန်ကုန်မြို့ ဂျူဗလီဟောခန်းမ၌ကျင်းပမည့်ဘွဲ့နှင်းသဘင်သို့ ဆရာတော်ဘုရားကြီးကြွရောက်ပါရန် ပင့်လျှောက်စာကိုပေးပို့ခဲ့လေသည်။ ပင့်စာကိုရေးသားရသူမှာ ထိုစဉ်က ရန်ကုန်တက္ကသိုလ်အရှေ့တိုင်းဘာသာသင်ကြားရေးအဖွဲ့၏ အဖွဲ့ဝင်လူကြီးတစ်ဦးဖြစ်သူ စာတော်ပြန်ဝန်ထောက်ဦးဘိုးဖြူဖြစ်သည်။

ဦးဘိုးဖြူထံမှပင့်လျှောက်စာရသောအခါ လယ်တီဆရာတော်ဘုရားကြီးမှာ စစ်ကိုင်း ဇေတဝန်ချောင်၌ ဆေးကုသမှုခံယူတော်မူနေစဉ်အခါဖြစ်၍ ဆရာတော်ဘုရားကြီး၏ကျန်းမာရေးအခြေအနေ

---

[*၁] The Burma Gazette, November 20th 1921. Page-150.

ကလည်း ရန်ကုန်မြို့သို့ကြွတော်မူရန်မဖြစ်နိုင်။ အကယ်၍ ဆရာတော်ဘုရားကြီးအနေဖြင့် ရန်ကုန်မြို့သို့ကြွတော်မူနိုင်ပါကလည်း ထိုဘွဲ့နှင်းအခမ်းအနားသို့ ကြွရောက်တော်မူလိမ့်မည် မဟုတ်ပေ။ အကြောင်းမှာ ဆရာတော်ဘုရားကြီးသည် ဂုဏ်ထူးဝိသေသစသည်တို့ကို လွန်စွာ စက်ဆုပ်တော်မူသောကြောင့်ဖြစ်သည်။ ရှေးအခါ အဂ္ဂမဟာပဏ္ဍိတဘွဲ့ဆက်ကပ်စဉ်အခါကလည်း လယ်တီဆရာတော်ဘုရားကြီးသည် ကိုယ်တော်တိုင်သွားရောက်လက်ခံယူခြင်းမပြုခဲ့ပေ။ သို့ဖြစ်ပါ၍ ဆရာတော်ဘုရားကြီးသည် ထိုတက္ကသိုလ်ဘွဲ့နှင်းသဘင်ဆင်ယင်ရာ ဂျူဗလီဟောဌာနသို့ မကြွရောက်နိုင်ကြောင်းကို တပည့်ဦးဓမ္မစာရီက အောက်ပါအတိုင်း စာပြန်ကြားခဲ့ပါသည်။

> တကာတော်စာတော်ပြန်ဦးဘိုးဖြူထံသို့ အထက်ပါအတိုင်းသိမြင်ရန် အကြောင်း ပြန်ကြားလိုက်ပါသည်။ ရဟန်းကသွား၍ ဘွဲ့တံဆိပ်ယူရန် မလျောက်ပတ်။ ရဟန်း ထံသို့လာရောက်ဆက်ကပ်ရန် ဝတ္တရားရှိသည့်အတိုင်း သံကြိုးပြန်လိုက်ရသည်။ ကျေးဇူးရှင်ဆရာတော်ဘုရားကြီးသည် စစ်ကိုင်းတောင်ရိုး၌ ဆေးဝါးသုံးဆောင် လျက်ရှိနေရာ ထပ်မံ၍ ဤအကြောင်းနှင့် တစ်ဖန်လျှောက်ရန်မသင့်လျော်သဖြင့် ပဌမစီမံချက်အတိုင်း ဒကာဦးဘိုးဖြူက ဆောင်ရွက်ရန်လုံလောက်ပြီဖြစ်၍ သည် အတိုင်း သံကြိုးရိုက်၍ပြန်လိုက်ပြီ ဒကာကြီး။
>
> ဦးဓမ္မစာရီ
>
> စစ်ကိုင်းတောင်ရိုး။*၁

သက္ကရာဇ် ၁၂၈၃–ခုနှစ်၊ နတ်တော်လဆန်း ၅–ရက် (အေဒီ–၄၊ ဒီဇင်ဘာလ၊ ၁၉၂၁–ခုနှစ်) မနက်စောစောကပင် မန္တလေးမြို့မှ မဟာဒါဝန်ထိပ်တင်ဖြူနှင့် ဒုမဟာဒါဝန်ဦးခင်မောင်ကြီးတို့ မင်းမှုမင်းထမ်းအစိုးရအရာရှိများ၊ သမားတော်ကြီးဦးကျော်ရန်၊ စာတော်ပြန်မြို့အုပ်ဦးဘိုးဖြူ မင်းကြီးကတော်မမည့်နှ–စသောတပည့်ကြီးများတို့ စုစုဝေးဝေးနှင့် စစ်ကိုင်းတောင်ရိုး ဇေတဝန် မဟာလယ်တီစံကျောင်း၌သီတင်းသုံးနေတော်မူသော ဆရာတော်ဘုရားကြီး၏ခြေတော်ရင်းသို့ ရောက်ရှိလာကြပါသည်။ ထိုနောက် မန္တလေးတိုင်း မျက်နှာဖြူခရိုင်ဝန်နှင့်အဖွဲ့တို့ရောက်လာကြ ပြန်သည်။

လူပရိသတ်စုံလောက်သောအခါ သမားတော်ကြီးဦးကျော်ရန်ကရှေ့ဆောင်၍ 'ယခု တပည့်ကြီးများလာရောက်ရခြင်းအကြောင်းမှာ ကျေးဇူးရှင်ဆရာတော်ဘုရားကြီးအား ရန်ကုန် တက္ကသိုလ်အုပ်ချုပ်ရေးအဖွဲ့ဒါယကာများကဆက်ကပ်သော ဒေါက်တာအော့ဖ်လက်တားခေါ် တိပိဋကတ္တယပါရဂူဘွဲ့တံဆိပ်ကြီးကို ဆက်ကပ်လှူဒါန်းလိုပါသဖြင့် လာကြရခြင်းဖြစ်ပါကြောင်း' ရှိသေစွာလျှောက်ထားပြီး၊ ထိုဘွဲ့ပုံလက်မှတ်နှင့်တံဆိပ်တို့ကို အလှူခံယူတော်မူပါရန် ပန်ကြား လျှောက်ထားပါသည်။ ထို့နောက် တက္ကသိုလ်ကြီး၏အဓိပတိဖြစ်သူ ဒုတိယဘုရင်ခံ ဆာ ရယ်ဂီနယ်

---

*၁ လယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၁၆၈)။

ဂရက်ဒေါက် (Sir Reginald Henry Craddock) ကိုယ်စား ထိပ်တင်ဖြူက သံသေတ္တာနှင့်အလုံပိတ်ထားသော ဒီလစ်ဘွဲ့လက်မှတ်နှင့်တံဆိပ်တော်တို့ကို ဆရာတော်ဘုရားအားဆက်ကပ်လေသည်။

ကျေးဖူးရှင်ဆရာတော်ဘုရားကြီးမှာ စက္ခုတော်ကွယ်ပနေပြီးဖြစ်၍ ဆက်ကပ်လာသောဘွဲ့တံဆိပ်တို့အား ဦးဓမ္မစာရီရှိရာဘက်သို့တွန်းပို့ပေးလိုက်ပြီး တစ်စုံတစ်ရာမျှမိန့်တော်မမူဘဲ နေတော်မူလေရာ တပည့်ဒကာများကလည်း ကျေးဖူးရှင်ဆရာတော်ဘုရားကြီး၏စိတ်သဘောကို သိပြီးဖြစ်ကြသည့်အတိုင်း ဘွဲ့တံဆိပ်ကိုလက်ခံယူတော်မူသည်ကိုပင် အထူးဝမ်းမြောက်ဝမ်းသာဖြစ်ကြလျက် ထိုနေ့မှာ မန္တလေးမြို့သို့ပြန်ခဲ့ကြလေသည်။*၁

ကျေးဖူးရှင်ဆရာတော်ဘုရားကြီးလက်ခံရရှိသော ဒီလစ်ဘွဲ့တံဆိပ်မှာ ထိုခေတ်ထိုကာလက အင်္ဂလိပ်အစိုးရ၏ လောကီပညာရေးဘက်၌ အဆင့်အမြင့်ဆုံးပညာရေးဆိုင်ရာဘွဲ့တံဆိပ်ဖြစ်ပြီး မြန်မာလူမျိုးတို့တွင် ကျေးဖူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် ပထမဆုံး ဒေါက်တာဘွဲ့ရပုဂ္ဂိုလ်သူမြတ်ကြီးပင်ဖြစ်သည်။ ဤဘွဲ့ကိုရခြင်းနှင့်ပတ်သက်၍ ကျေးဖူးရှင်ဆရာတော်ဘုရားကြီးသည် ဝမ်းသာတော်မူကြောင်း စသည်တစ်စုံတရာမိန့်တော်မမူဘဲ ခပ်မဆိပ်နေတော်မူခဲ့သည်မှာ ပျံလွန်တော်မူချိန်တိုင်ဖြစ်ပါသည်။*၂ ကျေးဖူးရှင်ဆရာတော်ဘုရားကြီး၏ ပသံသာမည်သော ချီးမွမ်းခြင်းလောကဓံတရားကို တည်တည်ငြိမ်ငြိမ်ခံယူနိုင်ခဲ့ခြင်း၏သာဓကပင်ဖြစ်ပါတော့သည်။

## သက်တော် ၇၅–နှစ်ပြည့်မွေးနေ့ပွဲ

သက္ကရာဇ် ၁၂၈၃–ခု၊ နတ်တော်လဆန်း ၁၃–ရက် (အေဒီ–၁၄၊ ဒီဇင်ဘာလ၊ ၁၉၂၁–ခုနှစ်) သည် ကျေးဖူးရှင်လယ်တီဆရာတော်ဘုရားကြီး မီးရှူးသန့်စင်ဖွားမြင်တော်မူသော (၇၅)ကြိမ်မြောက် ဝိဇာယနမွေးနေ့မင်္ဂလာအခါဖြစ်ပါသည်။ ထိုမွေးနေ့ပူဇာပွဲကို တပည့်သံဃာတော်ကြီးများနှင့် အငြိမ်းစားဝန်ထောက်ကြီးဦးစံမင်း၊ အငြိမ်းစားအရေးပိုင်ဦးကျော်ငြိမ်း၊ လယ်တီစံကျောင်းဒါယကာ အငြိမ်းစားတိုက်ပိုင်အင်စပိတ်တော်ဦးဖေ၊ အငြိမ်းစားဝန်ထောက်ကြီးဦးစံဖူး၊ ဦးအောင်ကျော်၊ ဦးဖိုးလူ၊ ဦးကျော်စသည့် တပည့်ဒါယကာကြီးများဦးဆောင်၍ စစ်ကိုင်းတောင်ရိုးဇေတဝန်ချောင် အောက်ဆေးတိုက်၌ ခမ်းနားကြီးကျယ်စွာပွဲကြီးပြုလုပ်ကျင်းပကြသည်။

ထိုမွေးနေ့ပူဇော်ပွဲ၌ ဝါတွင်းသုံးလပတ်လုံး ဆရာတော်ဘုရားကြီးအမိန့်အတိုင်း ဇီဝိတဒါနဘယဒါနကတိထား၍ ကျင့်ဆောင်ထားခဲ့သော တပည့်ကြီးများကလည်း မိမိတို့၏လုပ်ငန်းနှင့်စပ်၍ အောက်ပါလျှောက်ထားချက်ကို ဖတ်ကြားလျှောက်ထားကြပါသည်။

'တပည့်တော်မောင်စံဝင်း၊ မောင်ဘိုးဝင်း၊ မောင်ကျော်ငြိမ်း၊ မောင်စံဖူး၊ မောင်စော၊ မောင်ပြိုင်၊ မောင်သီတို့နှင့်တကွ ကုလပုတ္တ ကုလာစာရ ဝံသာနုရက္ခိတဖြစ်ကုန်သော ယောကျ်ား၊ မိန်းမ၊ ဥပါသကာ၊ ဥပါသိကာဟူသမျှတို့သည် ရဟန်းတော်

---

*၁ ဤအချက်တို့ကို လယ်တီဦးဝဏ္ဏိတ (ဆရာကြီးဦးလုတင်)၏ ပြောပြချက်များဖြစ်ပါသည်။

*၂ ယခုထိတိုင် ထိုဒေါက်တာဘွဲ့တံဆိပ်လက်မှတ်ဖြစ်စေ၊ ဆိုင်ရာတံဆိပ်တုံးဖြစ်စေ မည်သည့်ဌာနသို့ရောက်ရှိနေကြောင်း မည်သူမျှမသိဘဲ တိမ်မြုပ်လျက်ရှိနေပါသည်။

ဘဝ သီလရှင်ဘဝမလုပ်နိုင်ကြသော်လည်း မိမိတို့တတ်စွမ်းသမျှ ကျင့်ကြံကြိုးကုတ် အားထုတ်လျက်ရှိကြသည်မှာ ကျွဲသား, နွားသား, ဝက်သား, ကြက်သားများကို မစားမသောက် ရှောင်ကြဉ်ကြရန် မနောစေတနာနှင့် ဇောအထပ်ထပ်ရှိနေကြသည်မှာ ယခုနှစ် သည်ဝါတွင်း၌ ဆရာတော်သခင်ကျေးဇူးတော်ရှင်သည် စစ်ကိုင်းတောင်ရိုး၌ ဝါဆိုတော်မူမည်ကို ကြိုတင်၍သိကြပါကုန်သည်ဘုရား။

ငါတို့အရှင်ကျေးဇူးတော်သခင်သည် စိတ်တွင်လုံးလုံး ကုန်းသတ္တဝါ, ရေသတ္တဝါ များအား သနားကရုဏာရှိလှပါသဖြင့် များစွာနှစ်လအခါသမယကပင် မခင်မတွယ် စွန့်ပယ်ရှောင်ရှား မစားမသောက်သည်မှာ ကြာရှည်ခဲ့လေပြီ။ ငါတို့တတွေမှာမူ လူတို့သီလပဉ္စင်နှင့် အဌင်္ဂမဂ္ဂာ ဤမျှသာစောင့်ထိန်းရလျက် များစွာသိက္ခာ နှစ်ရာ ခုနစ်ဆယ် စွန်းကယ်ပိုမောက် စောင့်ရှောက်ထိန်းသိမ်းရသည့် အာစရိယသခင် ကျေးဇူးအရှင်ကို မြှော်မြင်ထောက်ဆ ကြောက်ရသည်ကတကြောင်း၊ ရှိသေကြ သည်တချက်၊ ရှက်ကြသည်တဖြာ၊ လူသီလသိက္ခာဖြင့် သတ္တဝါတို့၏အသား စားချင် တိုင်းစားပြီးလျှင် မိမိအသားပြု၍ ယုတ်သည့်အဖြစ် တွေးမိတိုင်းမြင်ကြလေ၍ စစ်ကိုင်းနေတပည့်အပေါင်း နှစ်ထောင်ကျော်တို့က ခြိုးခြံကြောင်းအကျင့်သိက္ခာဖြင့် ယခု ၁၂၈၃-ခု ဝါဦးကစတင်၍ တသက်ပတ်လုံး ကုန်သတ္တဝါများ၏အသား,အသွေး တို့ကို မစားမသောက်ကြဘဲ ကျေးဇူးရှင်ဆရာတော်ဘုရားအား လှူဒါန်းကြပြီးလျှင် အဖိတ်နေ့တိုင်းလည်း ဈေးရုံထဲ၌ ရောင်းသူကို ထောက်ပံ့ကူငွေကြေးဖြင့် တားမြစ်ရန် ပေးကြသဖြင့် သေဘေးမရဏာ ကင်းပကျွတ်ကျွတ် လွတ်ထွက်၍သွားကြသော တိရစ္ဆာန်အများတို့မှာ အောက်စာရင်းပါအတိုင်းဖြစ်ပါသည်ဘုရား-

| | | |
|---|---|---|
| ၁။ | နွားကောင်ရေပေါင်း | ၁၅၅ |
| ၂။ | ဆိတ်,သိုးကောင်ရေပေါင်း | ၂၄၆ |
| ၃။ | ဝက်ကောင်ရေပေါင်း | ၄၈၉ |
| ၄။ | ကြက်ကောင်ရေပေါင်း | ၉,၂၆၀ |
| | (၄)လအတွင်း စုစုပေါင်း | ၁၀,၁၅၀ ကောင် |

ဤကဲ့သို့ကယ်ဆယ်မှု ယခုနှစ် ဝါဆိုလများကို ဇီဝိတဒါန,အဘယဒါန များလှ ထောင်သောင်း သတ္တဝါအပေါင်းတို့အား သနားငဲ့ညာ ကရုဏာမယွင်း ကယ်ဆယ်ခြင်း များလှပေသည်မှာ ရှေးအခါကာလသမယက ဒါနကွန့်မြူး စကားထူးကို မကြားဖူးကြ၊ ယခုမှပင် ကျေးဇူးရှင်၏ဂုဏ်အင်ကြီးမား ဘုန်းတော်အားကြောင့် အဟော်သာစု ကောင်းချီးပြု၍ မနေသာမှု သူ့ထက်ငါ ငါ့ထက်သူ ခြိုးခြံကြသည့်အရေး ကလေး သူငယ်လူမမယ်တို့ပင် ကြဉ်ရှောင်ကြပါသည်ဘုရား။

သို့ကလောက် စေတနာပွားစီးသည့်တွက်တာကြောင့် နောင်နှစ်ခါဝါလဒ္ဓ ဤဒေသစစ်ကိုင်းမှာ သည်အတိုင်းမက ဆဆက်ပြန်တိုးတက်မည့် အကျိုးဆက်မလွဲ-ဟု ရဲရဲကြီးစိတ်ချ၍ ယခုကကြိုတင်ကာ ကျေးဇူးတော်သခင်ကို နောင်နှစ်တွင် လက်မလွတ်ရအောင် မြို့လုံးကျွတ် ရွာလုံးကျွတ်ဦးညွှတ်၍ ခြေတော်စုံကို သွယ်ယှက်သောလက်နှစ်စုံဖြင့် ခိုလှုံဝပ်ပြောင်း ခွင့်တောင်းလျှောက်ထားကြပါသည်တစ်ချက်။

ယခုနှစ်အတွက် အသက်ဇီဝိတ ကယ်ဆယ်ရသည့်ကောင်းမှုနှင့် ကုန်းသတ္တဝါတို့၏အသားများကို အသက်ထက်ဆုံး မစားမသောက်ကြပါဟု လှူဒါန်းသောဦးရေ နှစ်ထောင့်ခြောက်ရာခုနစ်ဆယ့်ရှစ်ယောက်တို့အတွက်ပါ ပုညကောင်းမှု စုစုတွဲဖက် ရေစက်သွန်းချလှူဒါန်းလိုပါသည်လည်းတစ်ကြောင်း။

အပေါင်းမိတ္တ ဒါယကာ,ဒါယကာမတို့က ဆရာတော်ဘုရားမွေးနေ့ဟု ထောင်ပြည့်ဆီမီး ဆွမ်းတော်ကြီးနှင့် ထီး,တံခွန်,ကြက်လျှာ အဖြာဖြာတို့ဖြင့် ညီညာသံပြိုင် မြိုင်မြိုင်စီစီ နှုတ်သံချီ၍ မဟီရိုက်ဟီး ပွဲတင်တီးခါ မြေကြီးဆပ်ဆပ် တုန်မတတ်သို့ ဆုမြွတ်ပတ္ထနာတောင်းကြရာသို့ မြတ်စွာပရမ သုံးလူ့ဆွေအား နှစ်ထွေလက်စုံကြာပဒုံဖြင့် ခိုလှုံကြပြီး ဆွမ်းတော်ကြီးနှင့် ဆီမီးထောင်ပြည့် ဤယနေ့၌ မမေ့မပျောက် နောက်ဝါအတွက်ပါ မြိုင်မြိုင်ကြီးဟစ်ကြွေးကြော်၍ မိုးပေါ်ကသိကြားမှ အံ့အားတောင်သင့်မိ ဒိတ်ခနဲဖြစ်ဘိ၍ 'မာတလိနတ်သားရဲ့ လူသံတွေများလှချေ့' ဘာများတုန်းမေး၍ သိကြားမင်းကြည့်ရအောင် တပည့်အပေါင်းတို့ သောင်းသောင်း ရုတ်ရုတ် အုတ်အုတ်ကျက်ကျက် အသက်ရာကျော်ရှည်၍ သာသနာ့ရောင်ခြည်သည် ဖိတ်ဖိတ်လည်ကွန့်မြူးအောင် အထူးသဖြင့် အားထုတ်နိုင်ပါစေကြောင်း၊ ကျေးဇူးတော်ရှင် ကျန်းမာချမ်းသာတော်မူပါစေကြောင်းကို သံပြိုင်ချီစုပေါင်း၍ ဆုတောင်းကြပါသည် ဘုရား။'

ဤအထက်၌ဖော်ပြသော ဆုတောင်းလွှာကြီးဖတ်ပြီးသည့်အဆုံး၌ ပရိသတ်နှစ်ထောင်ကျော်တို့ တခဲနက်သံပြိုင်ဆုတောင်းကြသည်မှာ ငါးမိနစ်ခန့်ပင်ကြာပါသည်။ ကြားရသူတို့မှာ ကြက်သီးမွေးညင်းထ၍ အံ့သြဘနန်းဖြစ်ကြရသည်။

ပြီးလျှင် ဓမ္မကထိက လယ်တီဦးပဒုမကိုယ်တော်က 'ဖေယျဖေယျာ, သေလသေလာ, ထေရထေရာ'-အစချီသော ကျေးဇူးရှင်ဆရာတော်ဘုရားကြီး၏ဘုန်းတော်ဘွဲ့ရတုပိုဒ်စုံကိုဖတ်ကြားလျှောက်ထားပါသည်။*၁

**ဦးဝဏ္ဏိတနှင့် ပဲခူးတပည့်များကပူဇော်ခြင်း**

ပဲခူးမြို့၌သာသနာပြုနေသော ဓမ္မကထိကဦးဝဏ္ဏိတ အမှူးပြုသော ပဲခူးမြို့ ပရမတ္ထသံခိပ်အသင်းသူများ၊ စက်ပရိတ်အသင်းသားများတို့သည် လယ်တီဆရာတော်ဘုရားကြီး၏သက်တော်

*၁ လယ်တီဦးလုတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ (စာမျက်နှာ ၁၆၂-၁၆၇)။

(၇၅)နှစ်ပြည့်မွေးနေ့ပူဇော်ပွဲသို့ လာရောက်၍ပူဇော်ကြပါသည်။ ဦးဝဏ္ဏိတနှင့်တပည့်များသည် စစ်ကိုင်းမြို့သို့ ဆိုက်ရောက်ကြလျှင် မီးရထားဘူတာရုံမှသည် မဟာလယ်တီစံကျောင်းကြီး အတွင်းအထိရောက်ရှိအောင် ဆရာတော်ဘုရားကြီး သီကုံးရေးသားသော ပဋ္ဌာနသမုပ္ပါဒ်လင်္ကာ ကြီးနှင့် စက်ပရိတ်တော်ကြီးတို့ကို ရွတ်ဖတ်ပူဇော်လာခဲ့ကြပါသည်။ ကျောင်းဝင်းအတွင်းရောက်၍ အဖွဲ့သားများ၏သံပြိုင်ရွတ်သံကို ဆရာတော်ဘုရားကြီး ကြားတော်မူသောအခါ ဓမ္မဂါရဝဖြစ်စေ ခြင်းအလို့ငှာ ဆရာတော်ဘုရားကြီးသည် ကုလားထိုင်အမြင့်ပေါ်၌ သီတင်းသုံးနေတော်မူရာမှ အနိမ့်သို့ရွှေ့ပြောင်းသီတင်းသုံးတော်မူပြီးလျှင် လက်အုပ်ချီမိုး၍ လေးမြတ်စွာနာယူတော်မူလေ သည်။

ဦးဝဏ္ဏိတနှင့် ပဲခူးမြို့တပည့်များက ရှုရှားပြည်ဖြစ် အနွေးထည်ခြုံထည်ကြီးတစ်ခုကို ဆရာတော်ဘုရားကြီးလက်သို့ဆက်ကပ်ကြပါသည်။ ဆရာတော်ဘုရားကြီးသည် စက္ခုကွယ်နေပြီ ဖြစ်၍ အနွေးခြုံထည်ကိုပွေ့ထားပြီး လက်နှင့်စမ်း၍ 'နွေးသကွဲ့၊ နူးညံ့လိုက်တာကွဲ့' စသည်ဖြင့် တပည့်တို့ကို ချီးမြှောက်သောအားဖြင့် ဝမ်းမြောက်ဝမ်းသာအမိန့်ရှိတော်မူပါသည်။*၁

**မုံရွာမြို့လယ်တီတိုက်၌ နောက်ဆုံးသီတင်းသုံးတော်မူခြင်း**

လယ်တီဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၈၃–ခုနှစ်၊ ပြာသိုလ (အေဒီ ၁၉၂၁– ခုနှစ်၊ ဒီဇင်ဘာလ)တွင် စစ်ကိုင်းမြို့မှ မုံရွာမြို့သို့ မီးရထားဖြင့်ကြွမြန်းတော်မူခဲ့ပါသည်။ လယ်တီ ဆရာတော်ဘုရားကြီးကြွတော်မူလာမည့်နေ့၌ တိုက်အုပ်ဆရာတော်ဦးဉာဏောဘာသ၊ အရှင်ကုမာရ, အရှင်နန္ဒဝံသအစရှိသောစာချဘုန်းတော်ကြီးများ၊ စာသင်သားရဟန်းတော်များ၊ သာမဏေများ၊ တပည့်ဒကာ,ဒကာမများတို့သည် လယ်တီတိုက်အတွင်း တင်ကြိုစုရုံးနေကြ ပါသည်။ မီးရထားဆိုက်ရန်အချိန်သို့ရောက်သောအခါ လူစုသည့်တုံးမောင်းကိုခေါက်ပြီး လယ်တီ တိုက်နှင့်မနီးမဝေး၌တည်ရှိနေသော မီးရထားလမ်းသို့ စုရုံးညီညာသွားကြပါသည်။

မကြာမီမှာပင် လယ်တီဆရာတော်ဘုရားကြီးစီးနင်းလိုက်ပါတော်မူလာသော အထူးမီးရထား တွဲဖြူကြီးသည် မုံရွာမြို့ဘူတာရုံအတွင်းသို့ဆိုက်ရောက်တော်မူလာသောအခါ မြို့ပေါ်မှတပည့် ဒကာ,ဒကာမများ၊ ရှင်လူပရိသတ်အများတို့သည်လည်း လှိုက်လှဲဝမ်းမြောက် မြေသို့ပျပ်ဝပ်လျက် ရှိခိုးပူဇော်ကြကာ ကြိုဆိုကြပါသည်။ ထို့နောက် ဆရာတော်ဘုရားကြီးအား တပည့်သံဃာတော် များက အသင့်စီမံလာသောလှည်းပေါ်သို့ ပြောင်းရွှေ့စံတော်မူစေပြီးလျှင် လယ်တီတိုက်သို့ ညင်သာစွာဆွဲယူပင့်ဆောင်ခဲ့ကြပါသည်။

ဆရာတော်ဘုရားကြီး လယ်တီတိုက်သို့ပြန်လည်ရောက်ရှိတော်မူလာသည့်အတွက် လယ်တီ တိုက်သားများအဖို့ ဝမ်းမြောက်ဝမ်းသာရှိကြပုံမှာ ပြောဖွယ်ရာမရှိတော့ပေ။ အမိအဖနှင့်နေရသော သားသမီးတို့အဖို့မှာ အမိအဖတို့၏ယုယမှုတို့ကိုရကြသည့်နည်းတူ ယခု သံဃပိတုဖြစ်တော်မူ သော လယ်တီဆရာတော်ဘုရားကြီး ပြန်လည်ကြွတော်မူလာသောအခါ လယ်တီတိုက်သူ

*၁ ဤအချက်တို့ကို လယ်တီဦးဝဏ္ဏိတ (ဆရာကြီးဦးလှတင်) ပြောပြခြင်းဖြစ်ပါသည်။

တိုက်သားအပေါင်းတို့အဖို့မှာ မိဘသဖွယ်ဖြစ်သောဆရာတော်ဘုရားကြီး၏ရင်ခွင်၌ ခိုဝင်လိုက်ကြရသဖြင့် အလွန်မြူးတူးကြည်နူးနေကြပေသည်။

ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် လယ်တီတိုက်အတွင်း မနောရမ္မစကြံကျောင်းတွင် သီတင်းသုံးနေတော်မူစဉ်ကာလ စက္ခုတော်ဝေဒနာခ,နေလင့်ကစား စာချမှုဝန်ကိုမပျက်စေဘဲ ပရမတ္ထဒီပနီဋီကာကိုလည်းကောင်း၊ ပဒရူပသိဒ္ဓိနှင့် နိရုတ္တိဒီပနီပါဌ်တို့ကိုလည်းကောင်း စာဆိုပဋ္ဌင်းအကူနှင့် စာဝါများကို နေ့ဝါအဖြစ်ပို့ချပေးတော်မူခဲ့ပါသည်။ ထိုသို့စာချနေစဉ်အတွင်း လယ်တီဆရာတော်ဘုရားကြီး၏ခြေရင်းဝယ် ပဋ္ဌင်းများနှင့်အတူ ထူးကဲသောဉာဏ်ရည်လုံ့လနှင့် စာလိုက်နေသောကိုရင်လေးတစ်ပါးလည်းရှိခဲ့ပေသည်။ ထိုသာမဏေလေးကား ရှင်ကောဝိဒ*၁ ဖြစ်သည်။ ရှင်ကောဝိဒသည် ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ပညာနို့ချိုကို နောက်ဆုံးသောက်စို့ရသော ပုဂ္ဂိုလ်ထူးပင်ဖြစ်ပါသည်။

**အရှင်အာသဘ၏ အမေးပုစ္ဆာ**

လယ်တီဆရာတော်ဘုရားကြီးသည် မုံရွာမြို့လယ်တီတိုက်ကြီးအတွင်း သီတင်းသုံးနေတော်မူစဉ် ပျဉ်းမနားမြို့ ရှမ်းစုကြီးကျောင်းနေ တပည့်ရင်းအရှင်အာသဘသည် သက္ကရာဇ် ၁၂၈၃–ခုနှစ်၊ ပြာသိုလဆုတ် ၁၃–ရက် (အေဒီ–၂၅၊ ဇန်နဝါရီလ၊ ၁၉၂၂–ခုနှစ်)တွင် လယ်တီဆရာတော်ဘုရားကြီးထံတော်သို့ 'နမတ္ထု ဂမ္ဘီရဉာဏဿ မဟာထေရဿ'–ဟူသောဝန္ဒနာဖြင့် အစချီကာ အမေးပုစ္ဆာအချို့ကို မေးလျှောက်ခဲ့ပါသည်။

အရှင်အာသဘ၏အမေးပုစ္ဆာတို့မှာ အလွန်ရှည်လျားပြီး အမေးတစ်ခုလျှင် စာမျက်နှာအားဖြင့် တစ်မျက်နှာ, နှစ်မျက်နှာခန့်ရှိလေသည်။ ဦးအာသဘက ဤသို့ အမေးပုစ္ဆာကိုအကျိုးအကြောင်း အကိုးအကားများနှင့်တကွ အကျယ်တဝင့်ရှည်လျားစွာရေးသားလျှောက်ထားရသည့်အကြောင်းမှာ အခြားမဟုတ်၊ ဆရာတော်ဘုရားကြီး ကောင်းစွာကျန်းမာတော်မူသည်မဟုတ်သဖြင့် 'ဤပုစ္ဆာတို့ကို မှားသည်–မှန်သည် မှတ်ချက်ချရုံသာ'ဟုသဘောထား၍ အကိုးအကားစသည်တို့ကို ပြည့်စုံစွာထည့်သွင်းလျှောက်ထားရခြင်းဖြစ်ကြောင်းနှင့် ဤအကြောင်းကို 'အတ္တုက္ကံသန စသည် မဖက် သက်သက်သဘောရိုးအတိုင်းပါဘုရား'ဟူ၍လည်းရှင်းလင်းလျှောက်ထားခဲ့ပါသေးသည်။*၂

**လယ်တီနိဗ္ဗာန်တရား**

ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၈၃–ခု၊ တန်ခူးလ (အေဒီ ၁၉၂၂–ခုနှစ်၊ ဧပြီလ)၌ မုံရွာမြို့ လယ်တီတောရမှထွက်ခွာလာတော်မူပြီး ရွှေဘိုမြို့ ရွှေဥဒေါင်းတောရတွင် ခေတ္တဝင်ရောက်ရပ်နားလျက် သီတင်းသုံးနေတော်မူပါသည်။ ထိုစဉ်အခိုက် မန္တလေးမြို့

---

*၁ နောင်အခါ ပုပ္ပါးဦးကျော်ရင်ဟုထင်ရှားမည့်ကိုရင်ဖြစ်သည်။ ထိုအရှင်ကောဝိဒသည် မုံရွာမြို့ လယ်တီတိုက်သို့ သက္ကရာဇ်–၁၂၈၀ (အေဒီ–၁၉၁၈)ခုနှစ်တွင် သက်တော် (၁၁)နှစ်အရွယ် ကိုရင်ဝတ်ဖြင့်ရောက်ရှိခဲ့ပါသည်။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ ၅၁၉–၅၇၄)။

*၂ လယ်တီဆရာတော်ကြီး၏ လယ်တီဝိနိစ္ဆယသုစိကျမ်း၊ ပထမတွဲ။ ၁၂၈၅–ခုနှစ်။ (စာမျက်နှာ ၁၇၇–၂၀၁)။

လယ်တီစံကျောင်းနေ လယ်တီဦးဝဏ္ဏိတကိုယ်တော်က ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးထံတော် ဆက်ကပ်လာသောစာလွှာတစ်စောင်မှာ ဤသို့ဖြစ်လေသည်။

ကျေးဇူးတော်ရှင်လယ်တီဆရာတော်မဟာထေရ်မြတ်ကြီးထံ

လျှောက်ထားလွှာပါဘုရား။

သက္ကရာဇ် ၁၂၈၃-ခု၊ တန်ခူးလဆန်း ၁၅-ရက်နေ့။*၁

တပည့်တော်ဝဏ္ဏိတ ရိုသေစွာရှိခိုးလျှောက်ထားပါသည် ကျေးဇူးတော်ရှင်မဟာထေရ်မြတ်ကြီးဘုရား။

လျှောက်ထားရန်မှာ- မဟာထေရ်မြတ်ကြီးသင်ကြားပြသဆုံးမဩဝါဒပေးသနားတော်မူချက်အရ ခန္ဓာငါးပါး ၅-ညဟောကိန်းကြီး၊ အာယာတနတစ်ဆယ့်နှစ်ပါး ၁၂-ညဟောကိန်းကြီး၊ ဓာတ်တစ်ဆယ့်ရှစ်ပါး ၁၈-ညဟောကိန်းကြီး၊ ပဋိစ္စသမုပ္ပါဒ်တစ်ဆယ့်နှစ်ရပ် ၁၂-ညဟောကိန်းကြီး ဤဟောကိန်းကြီးတို့ကိုပိုင်နိုင်စွာ ညတရားပွဲကြီးတို့၌ ဟောပြောနိုင်ပါသော်လည်း နိဗ္ဗာန်တရားဟောကိန်းကြီးတစ်ခု၌ ကြွင်းကျန်နေပါသေးသည်။

ယခုဟောပြောလျက်ရှိသောနိဗ္ဗာန်တရားမှာ- 'ဇာတိအစရှိသော မီးဆယ့်တစ်တန်၊ ငြိမ်းရာမှန်သည့်၊ ပြည်နိဗ္ဗာန်သို့၊ အမြန်ရောက်ရပါလို၏'ဟု ဆုတောင်းရိုးအစဉ်ရှိသည့်အတိုင်းသာ ဟောပြောနေရာ စိုစိုရွှန်းရွှန်း မြိန်မြိန်ယှက်ယှက်မရှိလှပါ။ တရားနာပရိသတ်များကလည်း လိုလိုချင်ချင်ရှိမည်မထင်ပါ။ ပျင်း, မှန်း, ငြီးတောက်ကြီးဖြစ်နေပုံလက္ခဏာ တွေ့ရှိပါသည်။

ငြီးတောက်ခြင်း၏အကြောင်းကား ဆုတောင်းချက်အရိုးအစဉ်၌ ဇာတိပဋိသန္ဓေနေ၍ ဘဝသစ်မရှိ၊ ဘဝသစ်မရှိလျှင် ခန္ဓာငါးပါးမရှိ၊ ခန္ဓာငါးပါးမရှိလျှင် ခံစားစံစားတတ်သော ဝေဒနာက္ခန္ဓာမှ ဆိတ်ကင်း၏။ ဝေဒနာက္ခန္ဓာမရှိလျှင် ထိုနိဗ္ဗာန်၌ခံစားခြင်းသဘောလည်းမရှိ။ ခံစားအပ်သောအာရုံလည်းမရှိနိုင်။ ထို့ပြင်တရပ်ကိလေသာကြွင်း၊ ခန္ဓာကြွင်းမရှိသော အနုပါဒိသေသနိဗ္ဗာန်ကို ဆုတောင်းရိုးအစဉ်ရှိသော်လည်း တကယ်ရောက်လို, ပေါက်လို, ယူလို, ရလိုကြသော လက္ခဏာမတွေ့ရပါ။ နိဗ္ဗာန်ကို အမြန်ရောက်ရပါလို၏ ဆုတောင်းသော်လည်း အမြန်ရောက်လိုသောလက္ခဏာ မမြင်ပါ။

အထောင်အသောင်းရှိသော တရားနာပရိသတ်တို့အား 'နိဗ္ဗာန်ကိုအမြန်ရောက်လိုသူရှိက ထွက်ခဲ့ကြစမ်းပါ'ဟုခေါ်သော်လည်း တစ်ယောက်မျှထွက်ပေါ်ဝံ့သူလူစွမ်းကောင်းမတွေ့ခဲ့ရသေးပါ။ တရားနာပရိသတ်အများကိုထားဘိဦး၊ တရားဟော

*၁ အေဒီ-၁၁၊ ဧပြီလ၊ ၁၉၂၂-ခုနှစ်ဖြစ်သည်။

*၂ လယ်တီဆရာတော်ကြီး၏ လယ်တီနိဗ္ဗာန်။ ဇမ္ဗူမိတ်ဆွေပိဋကတ်တိုက်၊ ရန်ကုန်မြို့။ ၁၃၁၆-ခုနှစ်။ (စာမျက်နှာ-နိဒါန်း)။

ဓမ္မကထိကပုဂ္ဂိုလ်အား 'အရှင်ဘုရားဟောနိဗ္ဗာန်ကို မြန်မြန်ရောက်လိုပါသလား'ဟု တရားနာပရိသတ်အများကမေးလျှင် ဤပြဿနာကိုဖြေရှင်းရန် အခက်အခဲနှင့် တွေ့နေပါသည်။

သို့ပါ၍ ယခုခေတ်ကာလပရိသတ်တို့နှင့်သင့်လျော်သော နိဗ္ဗာန်ဟောကိန်းကြီး တစ်ခု ထုတ်ဆင့်ရေးသားပေးသနားတော်မူပါရန် ရှိသေစွာလျှောက်ထားပါသည် ဘုရား။

ဝဏ္ဏိတ

နယ်လှည့်တရားဟောကိုယ်စားလှယ်

ရတနာပုံ–လယ်တီစံကျောင်း

စည့်ရှင်တံခါးအနီး၊ အနောက်ပြင်၊ မန္တလေးမြို့။*၁

ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် နိဗ္ဗာန်တရားတော်ကြီးနှင့်စပ်၍ ရေးသား ဖြေဆိုရသည်ကို အထူးနှစ်သက်သည်ဖြစ်၍ သက္ကရာဇ်–၁၂၆၁(အေဒီ–၁၈၉၉)ခုနှစ်တွင် နိဗ္ဗာန ဒီပနီတစ်ကြိမ်၊ သက္ကရာဇ်–၁၂၇၉(အေဒီ–၁၉၀၇)ခုနှစ်တွင် ဦးရွှေဇံအောင်၏တောင်းပန်ချက်ဖြင့် ရေးစီတော်မူသော နိဗ္ဗာနပုစ္ဆာဝိသဇ္ဇနာတစ်ကြိမ် နှစ်ကြိမ်တိုင်တိုင် နိဗ္ဗာန်အကြောင်းရေးသားခဲ့ပြီး ဖြစ်သော်လည်း ယခုတစ်ကြိမ် တပည့်ကြီးဦးဝဏ္ဏိတက 'နိဗ္ဗာန်အကြောင်းရှင်းပြတော်မူပါဦးဘုရား' ဟုမေးလျှောက်လာသည့်အခါတွင် ရှေးယခင် နှစ်ကြိမ်ရေးသားခဲ့ဖူးသော နိဗ္ဗာန်ကျမ်းတို့ကိုဖတ်ရှုရန် ညွှန်ပြတော်မူခြင်းမပြု၊ မိမိ၏ကျန်းမာရေးမပြည့်စုံမှုကိုလည်းမထောက်မငဲ့ဘဲ နောက်ထပ်တစ်ဖန် နိဗ္ဗာန်တရားစာအသစ်တစ်စောင်ကို ရေးသားတော်မူခဲ့ပြန်ပါသည်။ ရေးသားတော်မူသည်ဆိုရာ၌ ဆရာတော်ဘုရားကြီးမှာ စက္ခုတော်ကွယ်နေပြီဖြစ်ပါသဖြင့် ဆရာတော်ဘုရားကြီးမိန့်ဆိုသမျှကို တပည့်ကြီးများဖြစ်သော ဦးဓမ္မစာရီ, ဦးပဒုမတို့ကလိုက်၍ရေးပေးကြရခြင်းသာဖြစ်ပါသည်။ ထို နိဗ္ဗာန်တရားစာကို အောက်ပါရစနာဂါထာဖြင့် အစချီထားပါသည်။

တိုက်တွန်းချက်ရစနာဂါထာ

နိရယေ ဘယသန္တာပံ၊ နိဗ္ဗာနေ ဝိပုလံ သုခံ။

ယထာဘူတံ ဝိညာပေတုံ၊ ဒေသေတဗ္ဗံဟိ ယောဂိနာ။

နိရယေ–ငရဲအစရှိသော သံသရာဝဋ်ထဲ၌၊ ဘယသန္တာပံ–ကြောက်ဖွယ်သရဲ ပူပန်ဆင်းရဲခြင်းဘေးကိုလည်းကောင်း၊ နိဗ္ဗာနေ–နိဗ္ဗာန်၌၊ ဝိပုလံ–ပြန့်ပြောကြီးကျယ် သော၊ သုခံ–ချမ်းသာခြင်းကိုလည်းကောင်း၊ ယထာဘူတံ–ဟုတ်မှန်သည့်အတိုင်း၊ ဝိညာပေတုံ–တရားနာပရိသတ်အများ မြင်လုံးထွားအောင် ထင်ရှားစေခြင်းငှာ၊

*၁ လယ်တီဆရာတော်ကြီး၏ လယ်တီနိဗ္ဗာန်။ ဇမ္ဗူမိတ်ဆွေပိဋကတ်တိုက်၊ ရန်ကုန်မြို့။ ၁၃၁၆–ခုနှစ်။ (စာမျက်နှာ–နိဒါန်း)။

ယောဂီနာ–ယောဂီပုဂ္ဂိုလ်သည်၊ ဒေသေတဗ္ဗံဟိ–ဒေသေတဗ္ဗံဝေ–သဘောကျအောင် ဟောပြောလျှင်သာတည်း။[*၁]

လယ်တီဆရာတော်ဘုရားကြီးသည် ဤနိဗ္ဗာန်တရားစာ၌ ပထမအရိယာသောတာပန်ပုဂ္ဂိုလ်, ဒုတိယအရိယာသကဒါဂါမ်ပုဂ္ဂိုလ်တို့ခံစားအပ်သော ပထမနိဗ္ဗာန်, တတိယအရိယာအနာဂါမ်ပုဂ္ဂိုလ်တို့ခံစားအပ်သော ဒုတိယနိဗ္ဗာန်, စတုတ္ထအရိယာရဟန္တာအရှင်မြတ်တို့ခံစားအပ်သော တတိယနိဗ္ဗာန်ဟူ၍ နိဗ္ဗာန်ကိုသုံးမျိုးသုံးစားခွဲခြားပြီး ရှင်းလင်းရေးသားတော်မူပါသည်။ ပြီးလျှင် ဆက်လက်ရေးသားတော်မူသည်မှာကား–

ဤနိဗ္ဗာန်သုံးရပ်တို့တွင် ယခုအခါ ဗုဒ္ဓဘာသာသာသနာအတွင်း၌ ပထမနိဗ္ဗာန်ကိုရခြင်းငှာ အလွန်အရေးကြီးလှ၏။ ထိုနိဗ္ဗာန်ကိုလည်း ယခု လူ့ဘဝ၌သော်လည်း ရနိုင်သောအခွင့်ကာလရှိနေ၏။ နတ်ပြည်သို့ရောက်၍ နတ်ဘဝ၌သော်လည်း ရနိုင်သောအခွင့်ကာလရှိနေ၏။ ဘုရားသာသနာကြီးနှင့်တွေ့ကြုံပါလျက် ဤပထမနိဗ္ဗာန်ကိုမျှမရခဲ့သည်ရှိသော် ဗုဒ္ဓုပ္ပါဒဒုလ္လဘကိုတွေ့ကြုံရပါလျက် လိုရင်းအကျိုးကိုမရဘဲရှိရလေ၏။ ယခုကာလ၌ လူအများတို့သည် မိမိတို့ကိုယ်ကို ယခု ဘုရားသာသနာတွင်းမှာ နိဗ္ဗာန်ကိုမရနိုင်ကြကုန်ပြီ။ နောက် အရိမေတ္တေယျမြတ်စွာဘုရားသာသနာသို့ရောက်မှ ရနိုင်ကြလိမ့်မည်ဟု မှတ်ထင်လျက်ရှိကြကုန်၏။ ထိုမှတ်ထင်ချက်သည် နိယတဗျာဒိတ်ရပြီးသော ပုဂ္ဂိုလ်တို့မှသာလျှင် မှတ်ထင်ချက်အတိုင်း ရနိုင်ကြကုန်လတ္တံ့။ နိယတဗျာဒိတ်ကိုမရဘူးသော အနိယတပုဂ္ဂိုလ်တို့မှာမူကား မှတ်ထင်ချက်အတိုင်းရနိုင်ကြရန် အလွန်ခဲယဉ်းလှ၏။

ခဲယဉ်းပုံကား– ယခု ဘုရားသာသနာကွယ်လွန်ပြီးသည့်နောက် မေတ္တေယျမြတ်စွာဘုရား ပွင့်တော်မူရာကာလသည် အလွန်ဝေးကွာလျက်ရှိသေး၏။ လူ့ဘဝပေါင်း, နတ်ဘဝပေါင်း သိန်းသောင်းများစွာ ကျင်လည်ကြရသော်လည်း ထိုမြတ်စွာဘုရားသာသနာသို့ ရောက်နိုင်ကြမည်မဟုတ်သေး။ စပ်ကြား၌လည်း သာသနာပအမိုက်တောကြီးမှာ ကျင်လည်ကြရလိမ့်မည်။ အတ္တဒိဋ္ဌိကြီးတင်းလင်းနှင့် ထိုအမိုက်တောကြီးအတွင်းမှာ ဘဝပေါင်းများစွာ ကျင်လည်ရသည်ရှိသော် အပါယ်ဘုံသို့ ဘဝပေါင်းမည်မျှ ကျရလိမ့်မည်မသိ။ အပါယ်ဘုံသို့ တစ်ကြိမ်တစ်ခါကျခဲ့ပြန်လျှင်လည်း ပြဆိုခဲ့ပြီးသော ခန္ဓာဓမ္မတာလမ်းကြီးအတိုင်း အပါယ်နယ်မှာပင် ဘဝပေါင်းသိန်းသောင်းများစွာ ကျင်လည်၍နေရသည်ရှိသော် ထိုမြတ်စွာဘုရားသာသနာတော်နှင့်တွေ့ကြုံရန် အဝေးကြီးဝေးကွာ၍ နေကြရလိမ့်မည်မသိ၊ ဤကား ပညာရှိတို့အထူးစဉ်းစားကြရန်အချက်ကြီးပေတည်း။–[*၂]ဟူ၍ ရေးသားထားတော်မူပါသည်။

---

*၁ လယ်တီဆရာတော်ကြီး၏ လယ်တီနိဗ္ဗာန်။ ဇမ္ဗူမိတ်ဆွေပိဋကတ်တိုက်၊ ရန်ကုန်မြို့။ ၁၃၁၆–ခုနှစ်။ (စာမျက်နှာ–နိဒါန်း)။

*၂ လယ်တီဆရာတော်ကြီး၏ လယ်တီနိဗ္ဗာန်။ ဇမ္ဗူမိတ်ဆွေပိဋကတ်တိုက်၊ ရန်ကုန်မြို့။ ၁၃၁၆–ခုနှစ်။ (စာမျက်နှာ–၁၉၊ ၂၀)။

ဤသို့ နိဗ္ဗာန်ကိုမျက်မှောက်ပြုနိုင်ရန် အားထုတ်နည်းတို့နှင့်စပ်လျဉ်း၍ ရှင်းလင်းပြတော်မူရာ၌ ဆရာတော်ဘုရားကြီးက အကျဉ်းအားဖြင့်ပြတော်မူထားပုံမှာလည်း–

ဤခန္ဓာကို လက္ခဏာရေးနှင့် ကြိတ်နယ်လိုသောသူမှာ အဘိဓမ္မာနည်းမလို၊ ပညာပါရမီပွားများဖို့ ပဋိသမ္ဘိဒါဉာဏ်ပွားများဖို့ အရာ၌သာ အဘိဓမ္မာနည်းလိုသည်။ တရားကိုယ် အစိတ်အလီများပြားလွန်းလျှင် ခွဲမှုခြမ်းမှုဝန်ကြီး၍ ခရီးမတွင်ရှိသည်။ အစိတ်များလျှင် မမြင်နိုင်မထင်နိုင်သော တရားစုအများပါရှိသည်။

မမြင်နိုင်သောတရားကို လက္ခဏာရေးတင်၍လည်း ဘာဝနာအစစ်မဖြစ်။ တရားကိုယ် တရားချက်ကို အတပ်မြင်၍တင်မှ ဘာဝနာအစစ်ဖြစ်သည်။ မြတ်စွာဘုရားသည်လည်း အဘိဓမ္မာနည်းကို တာဝတိံသာ၌တစ်ခါ၊ စန္ဒကူးတောတွင် အရှင်သာရိပုတ္တရာကိုတစ်ခါသာ ဟောလေသည်။ သည့်ပြင် ဘယ်သတ္တဝါကို အဘိဓမ္မာနည်းနှင့် ဟော၍ ချွတ်သည်ဟုမရှိ။ တာဝတိံသာတွင် အဘိဓမ္မာဟောစဉ်အခါမှာလည်း နတ်ဗြဟ္မာတို့ကို သုတ္တန်နည်းညှပ်၍ညှပ်၍ ချွတ်ရသည်။

ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်းကို စီးဖြန်းလိုသောသူသည် ကျယ်ဝန်းနက်နဲလှ၍ ဈာန်မရ။ စတုဓာတုဝဝတ္ထာန်ကမ္မဋ္ဌာန်းကိုစီးဖြန်းသောသူသည် သိမ်မွေ့နက်နဲလှ၍ ဈာန်မရ။ ဤအတူမှတ်၊ အရှင်သာရိပုတ္တရာသည် တရားအစိတ်အလီ ကျယ်ဝန်းများပြား၍ နေသောကြောင့် ဆယ့်ငါးရက်မှ ရဟန္တာဖြစ်သည်။ အရှင်မောဂ္ဂလာန်မှာ တရားအစိတ်အလီ သင့်တင့်ရုံခွဲခြမ်း၍ရှုသောကြောင့် ခုနစ်ရက်နှင့်ရဟန္တာဖြစ်သည်။

ဓာတ်ခြောက်ပါးခွဲ၍ ပက္ကုသာတိမင်းကျွတ်ရာမှာ ဓာတ်ကြီးလေးပါး၌ လက္ခဏာရေးသုံးပါးတင်လျှင် ဥပါဒါရုပ်စုပြီးတော့သည်။ စိတ်၌ လက္ခဏာရေးသုံးပါးတင်လျှင် စေတသိက်စုပြီးတော့သည်။ အာကာသဓာတ်မှာ ထင်ရှားလှ၍ အကူအပံ့မျှထည့်လေသည်။ ဘုံနန်းပြာသာဒ်ဆောက်လုပ်ရာ၌သည် တိုင်, ထုပ်လျှောက်, ရက်မ, ဆင့်ကြမ်း, ဒိုင်းကျားတို့နှင့် သတ္တဝါမှာ အမာခံအထည်ခံ ဓာတ်ကြီးလေးပါး တူသည်။ ပြာသာဒ်အမွမ်းအခြယ် ကြိယာစုနှင့် အကြည်ဓာတ်ခြောက်မျိုးတူသည်။ စသည်ဖြင့် နည်းပေးလမ်းညွှန် ရေးသားတော်မူခဲ့ပါသည်။[*၁]

ဤ 'လယ်တီနိဗ္ဗာန်တရားတော်'သည် လယ်တီဆရာတော်ဘုရားကြီး၏ နောက်ဆုံးပြုစုသောကျမ်းစာဟုမှတ်ယူသော် ရနိုင်ကောင်းပါသည်။ အကြောင်းမှာ ဤ 'လယ်တီနိဗ္ဗာန်တရားစာ' ကို နှုတ်မှမြွက်ဆိုရေးသားစေပြီးသည့်နောက်၌ အခြားမည်သည့်ကျမ်းစာကိုမျှ စီစဉ်ရေးသားတော်မူနိုင်ခြင်းမရှိတော့ပေ။

---

*၁ လယ်တီဆရာတော်ကြီး၏ လယ်တီနိဗ္ဗာန်။ မွေ့မိတ်ဆွေပိဋကတ်တိုက်၊ ရန်ကုန်မြို့။ ၁၃၁၆–ခုနှစ်။ (စာမျက်နှာ ၄၅–၄၆)။

## သတ္တပညာသမဝါကပ်တော်မူခြင်း

လယ်တီဆရာတော်ဘုရားကြီးသည် ရွှေမြို့ ရွှေဥဒေါင်းတောင်တောရ၌ သီတင်းသုံးနေတော်မူပြီး၊ ပျဉ်းမနားမြို့အနီး အင်ကြင်းမြိုင်တောရ စကြံကျောင်းသို့ ပြောင်းရွှေ့သီတင်းသုံးတော်မူခဲ့ပါသည်။ ထိုမှတစ်ဖန် သက္ကရာဇ် ၁၂၈၄-ခုနှစ်၊ ဝါတွင်းကာလ (အေဒီ ၁၉၂၂-ခုနှစ်၊ ဩဂုတ်လ)သို့ရောက်သော် ပျဉ်းမနားမြို့ လယ်တီစံကျောင်း၌ (၅၇)ကြိမ်မြောက် သတ္တပညာသမဝါကို ကပ်တော်မူခဲ့ပါသည်။

## သက်တော် ၇၆-နှစ်ပြည့်မွေးနေ့ပွဲ

သက္ကရာဇ် ၁၂၈၄-ခုနှစ်၊ နတ်တော်လဆန်း ၁၃-ရက် (အေဒီ-၁၊ ဒီဇင်ဘာလ၊ ၁၉၂၂-ခုနှစ်)တွင် ပျဉ်းမနားမြို့တွင် ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး မီးရှူးသန့်စင်ဖွားမြင်တော်မူသော (၇၆)ကြိမ်မြောက် ဝိဇာယနမွေးနေ့မင်္ဂလာအခမ်းအနားကို မြို့လုံးကျွတ်အကအခုန်အတီးအမှုတ်များဖြင့် မြိုင်မြိုင်ဆိုင်ဆိုင်ကျင်းပကြပါသည်။ ထိုနေ့တွင် ဇီဝိတဒါနအဘယဘေးမဲ့သက်လွှတ်ပွဲကြီးကိုလည်း ပူးတွဲကျင်းပကြရာ ထိုသက်လွှတ်ပွဲကြီး၌ ဘေးမဲ့လွှတ်သောကောင်ရေစုစုပေါင်းမှာ အောက်ပါအတိုင်းဖြစ်သည်။

| | |
|---|---|
| နွားပေါင်း | ၅ |
| ဆိတ်ပေါင်း | ၃ |
| ကြက်ပေါင်း | ၁၇၀ |
| ရေကြက်ပေါင်း | ၁၆ |
| ငါးပေါင်း | ၃၂၅၈၀ |

စုစုပေါင်းကောင်ရေ ၃၂၇၈၄ ကောင် ဖြစ်ပါသည်။

ထိုမွေးနေ့ပူဇော်ပွဲ၌ အသက်ပေါင်း(၃၂၇၈၄)တို့ ဘေးမဲ့ဖြစ်ခဲ့ပါသည်။ ဆရာတော်ဘုရားကြီး၏မွေးနေ့ပူဇော်ပွဲကို ပျဉ်းမနားမြို့၌ကျင်းပသည့်နည်းတူ မုံရွာ၊ စစ်ကိုင်းစသည့်မြို့များတွင်လည်း ကျင်းပကြပြီး သားငါးကောင်ရေများစွာကိုလည်း ဘေးမဲ့အဘယဒါနလွှတ်ကြပါသည်။*၁

၁၂၈၄-ခု၊ နတ်တော်လဆန်း ၁၃-ရက်နေ့ ပျဉ်းမနားမြို့ ဆရာတော်ကြီး၏မွေးနေ့အထိမ်းအမှတ် မြို့လုံးကျွတ်အဘယဒါနဇီဝိတဒါနအလှူတော်ပွဲကြီးတွင် ကျေးဇူးရှင်ဆရာတော်ဘုရားကြီးကိုယ်တိုင်ချအပ်သော အဘယဒါနဇီဝိတဒါနရေစက်ချကြီးမှာ အောက်ပါအတိုင်းဖြစ်သည်။

ဘန္တေ -အရှင်ဘုရား။ မယံ-အကျွန်ုပ်တို့သည်၊ ဇာတိဒုက္ခတော-အဖန်ဖန်ပဋိသန္ဓေနေရခြင်းဆင်းရဲဒုက္ခမှ၊ သီဃံ-လျင်မြန်စွာ၊ မောစနတ္ထာယ စ-ကျွတ်လွတ်ထွက်မြောက်ပါရခြင်းအကျိုးငှာလည်းကောင်း၊ ဇရာဒုက္ခတော-အဖန်ဖန် အိုမင်း

*၁ ပညာ့အလင်းမဂ္ဂဇင်း၊ အတွဲ-၇၊ အမှတ်-၂။ ၁၉၂၃-ခုနှစ်၊ ဖေဖော်ဝါရီလ။ (စာမျက်နှာ -၆၂)။




ပျဉ်းမနားမြို့၌ ၁၂၈၄-ခုနှစ်တွင် မြို့သူမြို့သားအပေါင်းတို့က လယ်တီဆရာတော်ကြီး၏မွေးနေ့အထိမ်းအမှတ်အဖြစ် ဇီဝိတဒါနအဘယဘေးမဲ့သက်လွှတ်ပွဲကြီးကျင်းပနေကြပုံ

ဆွေးမြေ့ရခြင်း ဆင်းရဲဒုက္ခမှ၊ သီဃံ–လျင်မြန်စွာ၊ မောစနတ္ထာယ စ–ကျွတ်လွတ်ထွက်မြောက်ပါရခြင်းအကျိုးငှာလည်းကောင်း၊ ဗျာဓိဒုက္ခတော–အဖန်ဖန် နာဖျားရခြင်းဆင်းရဲဒုက္ခမှ၊ သီဃံ–လျင်မြန်စွာ၊ မောစနတ္ထာယ စ–ကျွတ်လွတ်ထွက်မြောက်ပါရခြင်းအကျိုးငှာလည်းကောင်း၊ မရဏဒုက္ခတော–အဖန်ဖန်သေကြေပျက်စီးခြင်းဆင်းရဲဒုက္ခမှ၊ သီဃံ–လျင်မြန်စွာ၊ မောစနတ္ထာယ စ–ကျွတ်လွတ်ထွက်မြောက်ပါရခြင်းအကျိုးငှာလည်းကောင်း၊ သဗ္ဗဒုက္ခေဟိ–ခပ်သိမ်းသောသံသရာဝဋ်ဆင်းရဲအပေါင်းတို့မှ၊ သီဃံ–လျင်မြန်စွာ၊ မောစနတ္ထာယ စ–ကျွတ်လွတ်ထွက်မြောက်ပါရခြင်းအကျိုးငှာလည်းကောင်း၊ ဣမသ္မိံဘဝေ–ဤယခုဘဝ၌၊ သဗ္ဗမင်္ဂလာနိ–အသက်ရှည်ခြင်း, အနာရောဂါကင်းရှင်းခြင်း, စည်းစိမ်ချမ်းသာတို့၏ တစ်နေ့တခြားတိုးပွားခြင်း, ဒါန သီလစသော ကုသိုလ်တရား, အလိမ္မာတရား, ပါရမီတရားတို့၏ တစ်နေ့တခြားတိုးပွားခြင်းအစရှိသော ခပ်သိမ်းသောကောင်းကျိုးချမ်းသာ မင်္ဂလာအပေါင်းတို့၏၊ ဝုမိယာ စ–တစ်နေ့တခြား တိုးပွားပါရခြင်းအကျိုးငှာလည်းကောင်း၊ တိသရဏေန–သရဏဂုံသုံးပါးနှင့်၊ သဟ–တကွ၊ ပဉ္စသီလာနိ–ငါးပါးသောဂရုဓမ္မနိစ္စသီလတော်မြတ်တို့ကို၊ သမာဒိယိတွာ–ကောင်းစွာကျင့်သုံးဆောက်တည်ခံယူပြီးလျှင်၊ အနန္တာစရိယဿ–အကျွန်ုပ်တို့ အနန္တ ကျေးဇူးရှင် လယ်တီဆရာတော်မြတ်ဘုရားကြီး၏၊ အတ္ထာယ စ–အကျိုးငှာလည်းကောင်း၊ ဟိတာယ စ–အစီးအပွားများပါစေခြင်းအကျိုးငှာလည်းကောင်း၊ သုခါယ စ–ကိုယ်စိတ်နှစ်ဖြာ ချမ်းသာပါစေခြင်းအကျိုးငှာလည်းကောင်း၊ အရောဂါယ စ–အနာရောဂါကင်းရှင်းပါစေခြင်းအကျိုးငှာလည်းကောင်း၊ ဒီဃာယုကာယ စ–အသက်ရာကျော်ရှည်တော်မူပါစေခြင်းအကျိုးငှာလည်းကောင်း၊ ဥဒ္ဒိဿ–ရည်မှတ်၍၊ ဝဇ္ဇပတ္တာနံ–သတ်ဖြတ်အံ့သောအခွင့်သို့ရောက်ကုန်သော၊ မရဏပတ္တာနံ–သေရအံ့သောအခွင့်သို့ရောက်ကုန်သော၊ ဣမေသံ သတ္တာနံ–သုံးသောင်းနှစ်ထောင်(၃၂၀၀၀)ကျော်မျှလောက်သော ဤတိရစ္ဆာန်သတ္တဝါအပေါင်းတို့အား၊ အဘယဒါနံ–ဘေးမဲ့အလှူကြီးကို၊ ဒေမ–ပေးလှူကြပါကုန်၏။ ဇီဝိတဒါနံ–အသက်အလှူကြီးကို၊ ဒေမ–ပေးလှူကြပါကုန်၏။ စက္ခုဒါနံ–မျက်စိအင်္ဂါအလှူဟူသော အလှူကြီးကို၊ ဒေမ–ပေးလှူကြပါကုန်၏။ သောတဒါနံ–နားအင်္ဂါအလှူဟူသော အလှူကြီးကို၊ ဒေမ–ပေးလှူကြပါကုန်၏။ ဃာနဒါနံ–နှာခေါင်းအင်္ဂါအလှူဟူသော အလှူကြီးကို၊ ဒေမ–ပေးလှူကြပါကုန်၏။ ဇိဝှာဒါနံ–လျှာအင်္ဂါအလှူဟူသော အလှူကြီးကို၊ ဒေမ–ပေးလှူကြပါကုန်၏။ ကာယဒါနံ–ကိုယ်အင်္ဂါအင်္ဂါအလှူဟူသော အလှူကြီးကို၊ ဒေမ–ပေးလှူကြပါကုန်၏။ မနောဒါနံ–စိတ်မနောအင်္ဂါအလှူဟူသော အလှူကြီးကို၊ ဒေမ–ပေးလှူကြပါကုန်၏။ ရူပဒါနံ–ရူပါရုံအလှူဟူသော အဆင်းအလှူကြီးကို၊ ဒေမ–ပေးလှူကြပါကုန်၏။ သဒ္ဒဒါနံ–သဒ္ဒါရုံဟူသောအလှူကြီးကို၊ ဒေမ–ပေးလှူကြပါကုန်၏။ ဂန္ဓဒါနံ–ဂန္ဓာရုံအလှူဟူသော အနံ့အလှူကြီးကို၊ ဒေမ–ပေးလှူကြ

ပါကုန်၏။ ရသဒါနံ-ရသာရုံအလှူဟူသော အရသာအလှူကြီးကို၊ ဒေမ-ပေးလှူကြပါကုန်၏။ ဖောဋ္ဌဗ္ဗဒါနံ-ဖောဋ္ဌဗ္ဗာရုံအလှူဟူသော အတွေ့အလှူကြီးကို၊ ဒေမ-ပေးလှူကြပါကုန်၏။ ဓမ္မဒါနံ-အာရုံငါးပါးမှကြွင်းကျန်သမျှသော ဓမ္မာရုံအလှူဟူသော အလှူကြီးကို၊ ဒေမ-ပေးလှူကြပါကုန်၏။

ဣမိနာပုညကမ္မေန-ဤကောင်းမှုကံစေတနာကြောင့်၊ ဣမေသတ္တာ-ဤသုံးသောင်းနှစ်ထောင်(၃၂၀၀၀)ကျော်မျှလောက်သော ဤတိရစ္ဆာန်သတ္တဝါအပေါင်းတို့သည်၊ ဂတဂတဋ္ဌာနေ-ရောက်ရာရောက်ရာအရပ်၌၊ အဝေရာ-ဘေးရန်ကင်းကွာကြကုန်သည်၊ ဟောန္တု-ဖြစ်ကြပါစေကုန်သတည်း။ အဗျာပဇ္ဈာ-ပူပန်သောကကြောင့်ကျဖျာပါဒမရှိကြကုန်သည်၊ ဟောန္တု-ဖြစ်ကြပါ စေကုန်သတည်း။ အနီဃာ-ဆင်းရဲဒုက္ခမရှိကြကုန်သည်၊ ဟောန္တု-ဖြစ်ကြပါစေကုန်သတည်း။ သုခီ-ကိုယ်စိတ်နှစ်ဖြာ ချမ်းသာသုခရှိကြကုန်သည်ဖြစ်၍၊ အတ္တာနံ-မိမိကိုယ်ကို၊ ပရိဟရန္တု-ရွက်ဆောင်နိုင်ကြပါစေကုန်သတည်း။ ဣမေသတ္တာ-ဤ တိရစ္ဆာန်သတ္တဝါအပေါင်းတို့သည်၊ ဂတဂတဋ္ဌာနေ-ရောက်ရာရောက်ရာအရပ်၌၊ ဒီဃာယုကာ-အသက်ရှည်ကြကုန်သည်၊ ဟောန္တု-ဖြစ်ကြပါစေကုန်သတည်း။ အရောဂါ-အနာရောဂါမရှိကြကုန်သည်၊ ဟောန္တု-ဖြစ်ကြပါစေကုန်သတည်း။ ဝဏ္ဏဝန္တာ-မဆုတ်မယုတ်နိုင်သောအဆင်းနှင့် ပြည့်စုံကြကုန်သည်၊ ဟောန္တု-ဖြစ်ကြပါစေကုန်သတည်း။ ဗလဝန္တာ-မဆုတ်မယုတ်နိုင်သော အားခွန်ဗလနှင့် ပြည့်စုံကြကုန်သည်၊ ဟောန္တု-ဖြစ်ကြပါစေကုန်သတည်း။ သုခဝန္တာ-ကိုယ်စိတ်နှစ်ဖြာချမ်းသာခြင်းနှင့် ပြည့်စုံကြကုန်သည်၊ ဟောန္တု-ဖြစ်ကြပါစေကုန်သတည်း။ ဂတဂတဋ္ဌာနေ-ရောက်ရာရောက်ရာအရပ်၌၊ အနဝဇ္ဇေ-အပြစ်မရှိကုန်သော၊ အာဟာရေ-အစာအာဟာရတို့ကို၊ ယထိစ္ဆိတံ-အလိုရှိတိုင်း၊ လဘန္တု-ရကြပါစေကုန်သတည်း။ ဥဒကာနိစ-သောက်ရေသုံးဆောင်ရေတို့ကိုလည်း၊ ယထိစ္ဆိတံ-အလိုရှိတိုင်း၊ ပိဝန္တု-သောက်ချိုးကြပါစေကုန်သတည်း။ ပရိဘုဉ္ဇန္တု-သုံးဆောင်ကြရပါစေကုန်သတည်း။ သုခိတေသု-ချမ်းသာရာဖြစ်ကုန်သော၊ သယနေသု-အိပ်ရာနေရာတို့၌၊ သယန္တု-အိပ်ကြပါစေကုန်သတည်း။ ယထိစ္ဆိတံ-အလိုရှိတိုင်း၊ ရမန္တု-မွေ့လျော်နိုင်ကြပါစေကုန်သတည်း။ ကီဠန္တု-ကစားမြူးထူးနိုင်ကြပါစေကုန်သတည်း။

မယံပိ-အကျွန်ုပ်တို့ သည်လည်း၊ ဣမိနာပုညကမ္မေန-ဤသို့ယခု ပြုစုလုံးပမ်းလှူဒါန်းကြရသောကောင်းမှုကံကြောင့်၊ ဘဝါဘဝေ-ဘဝတိုင်းဘဝတိုင်း၌၊ အဝေရာ-ဘေးရန်ကင်းကွာကြကုန်သည်၊ ဘဝေယျာမ-ဖြစ်ရပါလိုကုန်၏။ အဗျာပဇ္ဈာ-ပူပန်သောက ကြောင့်ကျဖျာပါဒမရှိကြကုန်သည်၊ ဘဝေယျာမ-ဖြစ်ရပါလိုကုန်၏။ အနီဃာ-ဆင်းရဲဒုက္ခမရှိကြကုန်သည်၊ ဘဝေယျာမ-ဖြစ်ရပါလိုကုန်၏။ သုခီ-ကိုယ်စိတ်နှစ်ဖြာ ချမ်းသာသုခရှိကြကုန်သည်ဖြစ်၍၊ အတ္တာနံ-မိမိကိုယ်ကို၊

ပရိဟာရေယျာမ–ရွက်ဆောင်နိုင်ရပါလိုကုန်၏။ မယံ–အကျွန်ုပ်တို့သည်၊ ဣမိနာ ပုညကမ္မေန–ဤကောင်းမှုကြောင့်၊ ဘဝါဘဝေ–ဘဝတိုင်းဘဝတိုင်း၌၊ ဒီဃာယုကာ–အသက်ရှည်ကြာစွာတည်နေရကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။ အရောဂါ–အနာရောဂါကင်းခြင်းနှင့် ပြည့်စုံကြကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။ ဝဏ္ဏဝန္တာ–မဆုတ်မယုတ် နိုင်သောအဆင်းနှင့်ပြည့်စုံကြကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။ ဗလဝန္တာ–မဆုတ်မယုတ်နိုင်သောအားခွန်ဗလနှင့် ပြည့်စုံကြကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။ သုခဝန္တာ–ကိုယ်စိတ်နှစ်ဖြာ ချမ်းသာခြင်းနှင့် ပြည့်စုံကြကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။

အထာပရံပိ–ထိုမှတပါးလည်း၊ ဘဝါဘဝေ–ဘဝတိုင်း ဘဝတိုင်း၌၊ စက္ခုသမ္ပန္နာ–မဆုတ်မယုတ်နိုင်သော မျက်စိအင်္ဂါနှင့် ပြည့်စုံကြကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။ သောတသမ္ပန္နာ–မဆုတ်မယုတ်နိုင်သော နားအင်္ဂါနှင့် ပြည့်စုံကြကုန်သည်၊ ဘဝေ ယျာမ–ဖြစ်ရပါလိုကုန်၏။ ဃာနသမ္ပန္နာ–မဆုတ်မယုတ်နိုင်သော နှာခေါင်းအင်္ဂါနှင့် ပြည့်စုံကြကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။ ဇိဝှာသမ္ပန္နာ–မဆုတ်မယုတ်နိုင်သော လျှာအင်္ဂါနှင့်ပြည့်စုံကြကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။ ကာယသမ္ပန္နာ–မဆုတ်မယုတ်နိုင်သော ကိုယ်အင်္ဂါနှင့် ပြည့်စုံကြကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။ မနောသမ္ပန္နာ–ဆုတ်ယုတ်ပျက်စီးခြင်းမရှိသော စိတ်မနောအင်္ဂါနှင့်ပြည့်စုံကြကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။ ရူပသမ္ပန္နာ–မဆုတ်မယုတ်နိုင်သော ရူပါရုံနှင့် ပြည့်စုံကြကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။ သဒ္ဒသမ္ပန္နာ–မဆုတ်မယုတ်နိုင်သော သဒ္ဒါရုံနှင့် ပြည့်စုံကြကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။ ဂန္ဓသမ္ပန္နာ–မဆုတ်မယုတ် နိုင်သော ဂန္ဓာရုံနှင့် ပြည့်စုံကြကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။ ရသ သမ္ပန္နာ–မဆုတ်မယုတ်နိုင်သော ရသာရုံနှင့် ပြည့်စုံကြကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။ ဖောဋ္ဌဗ္ဗသမ္ပန္နာ–မဆုတ်မယုတ်နိုင်သော ဖောဋ္ဌဗ္ဗာရုံနှင့် ပြည့်စုံကြကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။ ဓမ္မသမ္ပန္နာ–မဆုတ်မယုတ်နိုင်သော ဓမ္မာရုံနှင့်ပြည့်စုံကြကုန်သည်၊ ဘဝေယျာမ–ဖြစ်ရပါလိုကုန်၏။

အန္တိမဘဝေ–အဆုံးစွန်သောဘဝ၌၊ အဇာတိံ–အဖန်ဖန်ပဋိသန္ဓေနေရခြင်း ဆင်းရဲဒုက္ခမှ ကင်းလွတ်ရာလည်းဖြစ်ထသော၊ အဇရံ–အဖန်ဖန်အိုရခြင်းဆင်းရဲမှ ကင်းလွတ်ရာလည်းဖြစ်ထသော၊ အဗျာဓိံ–အဖန်ဖန်အနာရောဂါနှိပ်စက်ခြင်း ဆင်းရဲဒုက္ခမှ ကင်းလွတ်ရာလည်းဖြစ်ထသော၊ အမရဏံ–အဖန်ဖန်သေရခြင်းဆင်းရဲဒုက္ခမှ ကင်းလွတ်ရာလည်းဖြစ်ထသော၊ နိဗ္ဗုယံ–ဘေးရန်ခပ်သိမ်းကင်းငြိမ်းရာလည်းဖြစ်ထသော၊ နိဗ္ဗာနံ–နိဗ္ဗာန်ချမ်းသာမြတ်ကြီးကို၊ သစ္ဆိကရေယျာမ–မျက်မှောက်ပြုရပါလိုကုန်၏။ ဣဒံပုညဘာဂံ–ဤကောင်းမှုကုသိုလ်အဖို့ကို၊ မာတာပိတုနဉ္စ–မိခင်ဖခင်

ကျေးဇူးရှင်တို့အားလည်းကောင်း၊ ဉာတီနဥ္စ–ဆွေမျိုးအပေါင်းတို့အားလည်းကောင်း၊ က္ကမသိမ္မိနဂရေ–ဤပျဉ်းမနားမြို့ကြီး၌၊ ဝသန္တာနံ–နေထိုင်ကြကုန်သော၊ ဒေဝါနဥ္စ–ရှိရှိသမျှသောနတ်အပေါင်းတို့အားလည်းကောင်း၊ ကေတိသာဘဝေ–သုံးဆယ့်တစ်ဘုံ၌၊ စရန္တာနံ–ကျင်လည်ကြဖြစ်ကြကုန်သော၊ သဗ္ဗသတ္တာနဥ္စ–ခပ်သိမ်းသောသတ္တဝါအပေါင်းတို့အားလည်းကောင်း၊ ဘာဇေမ–အမျှပေးဝေပါကုန်၏။ သဗ္ဗေ–ခပ်သိမ်းကုန်သော၊ သတ္တာ–သတ္တဝါဟူသမျှအနန္တတို့သည်၊ အမေ့ဟိ–အကျွန်ုပ်တို့နှင့်၊ သမံ–တူမျှသော၊ ပုညဘာဂံ–ကောင်းမှုကုသိုလ်အဖို့ကို၊ လဘန္တု–အမျှရကြသည်ဖြစ်ပါစေကုန်သတည်း။ အနုမောဒန္တု–ဝမ်းမြောက်ဝမ်းသာ သာဓုအနုမောဒနာ ပြုနိုင်ကြပါစေကုန်သတည်း။ ။

**ဆရာတော်ဘုရားကြီး၏ အမိန့်ကြော်ငြာစာ**

လယ်တီဆရာတော်ဘုရားကြီးသည် သတ္တဝါဝေနေယျတို့ ဘေးအမျိုးမျိုးကပ်အပေါင်းပေါင်းတို့မှ လွတ်မြောက်ရာလွတ်မြောက်ကြောင်း အမြဲတစေကြံဆနေတော်မူပါသဖြင့် သက္ကရာဇ်၁၂၈၅–ခုနှစ်၊ နယုန်လဆန်း ၇–ရက် (အေဒီ–၂၁၊ မေလ၊ ၁၉၂၃–ခုနှစ်)ထုတ် ပညာ့အလင်းသတင်းစာတွင် တစ်ကမ္ဘာလုံး၌ကပ်ကြီးသုံးပါးကျရောက်လိမ့်မည်ဟု အင်ကန္ဒာ ဆွာမိပုလဲဆိုသူ ဗေဒင်ဆရာကြီးတစ်ဦးက ဟောကိန်းထုတ်ထားသည်ကို တပည့်တို့ဖတ်ပြ၍ နာကြားတော်မူရပါသည်။ ထိုသတင်းကိုနာကြားတော်မူမိလျှင်ပင် မိမိ၌ကျရောက်ဆဲဖြစ်သော ရောဂါဝေဒနာစသည်ကို မေ့ပျောက်တော်မူလျက် သတ္တဝါဝေနေယျတို့ ကပ်ဘေးအပေါင်းမှအေးငြိမ်းစေကြောင်း နည်းလမ်းကောင်းတို့ ညွှန်ပြထုတ်ဖော်မိန့်ကြားတော်မူလိုသောဆန္ဒမြတ်သည် ဥဒည်စွန်းက နေဝန်းထွက်ပေါ်သည့်အလား ကြွားကြွားဝင့်ဝင့်ဖြစ်ပေါ်ခဲ့ပါသည်။ ဤနည်းလမ်းများသည် ဆရာတော်ဘုရားကြီးကိုယ်တော်တိုင် နှစ်ပေါင်းများစွာ လက်တွေ့ကျင့်သုံး၍ အောင်မြင်ခဲ့ပြီးဖြစ်သောနည်းလမ်းကောင်းများဖြစ်လေသည်။ ဤနည်းလမ်းတို့ဖြင့်ပင် ရှေးရှေးကဖြစ်ပေါ်ခဲ့သော ပလိပ်ကပ်ရောဂါ၊ မိုးခေါင်မှု–စသည့်ကပ်ဘေးအမျိုးမျိုးတို့ကို နှိမ်နင်းတော်မူနိုင်ခဲ့ပြီဖြစ်ပါသည်။

ထိုနည်းလမ်းကောင်းတို့ကို ရှင်လူအပေါင်းတို့လိုက်နာကြစေရန် ဆရာတော်ဘုရားကြီးက အမိန့်ပြန်တမ်းတစ်ခုဖြစ်စေ ပြုလုပ်ပြီး အောက်ပါအတိုင်း အေဒီ ၁၉၂၂–ခုနှစ်၊ ဇူလိုင်လထုတ် ပညာ့အလင်းမဂ္ဂဇင်း၌ ထည့်သွင်းဖော်ပြခဲ့ပါသည်။

ပထမ ‘အဂ္ဂမဟာပဏ္ဍိတ’၊ ဒုတိယ ‘ဒီလစ်’ ခေါ် တိပိဋကပါရဂူတံဆိပ်တော်ရ ဖြစ်တော်မူသော မုံရွာမြို့ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးအမိန့်ကြော်ငြာစာ။

ဆရာတော်သည် နယုန်လဆန်း ၇–ရက်*၁နေ့ထုတ်ဝေသော ပညာအလင်းသတင်းစာကိုဖတ်နာရာ မြန်မာသက္ကရာဇ်၁၂၈၅–ခု၊ ဝါဆိုလ*၂ မှစ၍ ၎င်းသက္ကရာဇ်

*၁ ၁၂၈၅–ခုနှစ်၊ နယုန်လဆန်း(၇)ရက်။ အေဒီ–၂၁၊ မေလ၊ ၁၉၂၃–ခုနှစ် ဖြစ်သည်။

*၂ အေဒီ ၁၉၂၃–ခုနှစ်၊ (ပထမဝါဆို) ဇွန်လ၊ (ဒုတိယဝါဆို) ဇူလိုင်လ ဖြစ်သည်။

၁၂၈၈–ခု၊ ဝါဆိုလ[*၁] အထိ သုံးနှစ်တိုင်တိုင် တစ်ကမ္ဘာလုံး၌ ကပ်ကြီးသုံးပါး အကြီးအကျယ်ဆိုက်ရောက်ကြလိမ့်မည်ဟူသော ဒစ်ဒီဂူမြို့ အင် ကန္ဒာ ဆွာမိပလဲ ဆိုသူ ပေဒင်ဆရာကြီး၏ဟောကိန်းကြီးကို ကြားနာရချေသည်။

ဆရာတော်သည် ဗုဒ္ဓဘာသာတည်ရှိရာမြန်မာပြည်အတွင်း၌ ထိုကပ်ကြီးများ အတွက် လူသတ္တဝါတို့၏အသက် ကျွဲနွားတိရစ္ဆာန်တို့၏အသက်ကိုကယ်ဆယ်မှုနှင့် တတ်စွမ်းသမျှ ကြောင့်ကျစိုက်ထုတ်၍လာသည်မှာ အနှစ်(၂၀)ခန့်ရှိခဲ့ပြီး ပြည်ပိုင် အစိုးရမင်းများလည်းအသိဖြစ်ကြ၏။ ပြည်သူပြည်သားများလည်း အသိဖြစ်ကြ၏။

သို့သော် ယခု အင် ကန္ဒာ ဆွာမိပလဲဆရာကြီး၏ဟောကိန်းကဲ့သို့ ကြီးကျယ် သောကပ်ကြီးမျိုး မတွေ့ကြုံဘူးရသော ဗေဒင်ဟောကိန်းမည်သည် ထွက်ဆိုတိုင်း မှန်သည်ရှိ၏။ ကိန်းအများတညီထဲထွက်ဆိုလျှင် အမှန်များတတ်၏။ ၎င်းဆရာကြီး၏ ဟောချက်အတိုင်းမှန်ခဲ့သော် ကမ္ဘာပေါ်မှာ အကြီးဆုံးသောကပ်ကြီးဖြစ်ရာ၏။

ဗုဒ္ဓဘာသာမြန်မာနိုင်ငံအတွက် ထိုကပ်ကြီးကိုကာကွယ်နိုင်ရန် ခံတပ်မြို့ကြီး တစ်ခု တည်ထောင်ဖို့ အလွန်အရေးကြီးလှ၏။ ခံတပ်မြို့ကြီးတည်ထောင်ပုံကား ထိုကပ်ကြီးမျိုးသည် ကမ္ဘာပေါ်၌ တိရစ္ဆာန်သတ္တဝါတွေကိုသတ်မှု,စားမှု ပါဏာတိပါတ ကံကြီး အလွန်များနေသည့်အတွက်ဖြစ်ချေသည်ဟု အမှန်ဆိုနိုင်၏။ ထို့ကြောင့် ထိုကပ်ကြီးကို လွန်မြောက်၍ အသက်ရှည်ရှည်နေလိုသောသူတို့မှာသည် ယခုနှစ် ဝါဆိုလမှစ၍ လေးနှစ်အတွင်း၌–

၁။ သူတစ်ပါးအသက်ကို သတ်ဖြတ်ခြင်းနှင့် သက်သတ်စာကိုစားသောက်ခြင်းမှ လွတ် ကင်းအောင် ကြဉ်ရှောင်ကြရမည်။

၂။ ယစ်မျိုးသောက်စားခြင်းမှ လွတ်ကင်းအောင် ကြဉ်ရှောင်ကြရမည်။

၃။ ခိုးမှု, တိုက်မှု, သူတစ်ပါးသားမယားပြစ်မှားမှု, မဟုတ်မမှန်သောစကားကိုပြောဆို မှုတို့မှ ကြဉ်ရှောင်ကြရမည်။

၄။ ယခုနှစ် ဝါဆိုလမှ၍ ၄–နှစ်အတွင်း၌ ရတနသုတ်ပရိတ်တော်ကြီး၊ ဘုရားခုနစ်ဆူ စက်ပရိတ်တော်ကြီးများကို ဘုရားဝတ်တက်အသင်းဖွဲ့၍ နေ့စဉ် ရွတ်ဖတ်ကြ ရမည်။

ထိုသို့ရွတ်ဖတ်ရာမှာလည်း သက်သတ်စာကိုမရှောင်သောသူများ ရွတ်အပ် သောပရိတ်သည် တန်ခိုးအာနုဘော်နည်းပါး၏။ သက်သတ်စာကိုရှောင်သောသူများ ရွတ်အပ်သောပရိတ်သည်သာ တန်ခိုးအာနုဘော်ကြီးမား၏။

ဝေသာလီပြည်၌ ကပ်ဥပဒ်ကြီးသုံးပါးအကြီးအကျယ်ဖြစ်ပွား၍နေရာ ရှင်အာနန္ဒာ သည် မြို့လမ်းမတို့၌ မတ်တတ်လျှောက်သွား၍ ညဉ့်သုံးယံပတ်လုံး ရတနသုတ်

[*၁] အေဒီ ၁၉၂၆–ခုနှစ်၊ (ပထမဝါဆို) ဇွန်လ၊ (ဒုတိယဝါဆို) ဇူလိုင်လ ဖြစ်သည်။

ကြီးကို အခေါက်ပေါင်းအထောင်များစွာရွတ်သဖြင့် ကပ်ဥပဒ်ဆိုးကြီးသုံးပါး တစ်ခါတည်းငြိမ်း၍သွားဖူး၏။ ကပ်ဥပဒ်ကြီးသုံးပါးဆိုသည်ကား ရောဂါဘေးကြီးတစ်ပါး၊ ငတ်မွတ် ခေါင်းပါးသောဘေးကြီးတစ်ပါး၊ ဘီလူးစားသောဘေးကြီးတစ်ပါးပေတည်း။

မိမိတို့သွားလာနေထိုင်ရာမှာလည်း ၎င်းပရိတ်တော်ကြီးများကို တစ်နေ့လျှင်သုံးကြိမ်ကျ အမှန်ရွတ်ကြရမည်။ ပြဆိုခဲ့သည့်အတိုင်း အမှန်ပြုလုပ်နိုင်သောသူများသည် ထိုကပ်ကြီးသုံးပါးကိုလွှန်၍ အသက်ရှည်စွာနေကြရလတ္တံ့။ တစ်ရွာလုံးပြုလုပ်နိုင်သော် ထိုတစ်ရွာလုံးသည် ထိုကပ်ကြီးသုံးပါးကိုလွှန်နိုင်လတ္တံ့။ တစ်မြို့လုံးပြုလုပ်နိုင်သော် ထိုတစ်မြို့လုံးသည် ထိုကပ်ကြီးသုံးပါးကို လွှန်နိုင်လတ္တံ့။ ဗုဒ္ဓဘာသာမြန်မာနိုင်ငံတစ်ဝန်းလုံး တညီတညာတည်းပြုလုပ်နိုင်ကြပါလျှင် ထိုကပ်ကြီးသုံးပါးကို တစ်နိုင်ငံလုံးလွှန်မြောက်၍ အသက်ရှည်စွာနေထိုင်ကြရလတ္တံ့။ အိမ်ခြေတစ်ရာရှိသောရွာ၌ ဤပရိတ်ကို နေ့စဉ်အမှန်ရွတ်နိုင်သူ လူဦးရေပေါင်း ၅၀–ခန့်ရှိခဲ့လျှင် ထိုရွာကိုစောင့်ရှောက်နိုင်လတ္တံ့။ ပရိတ်အသင်းတွေထူထောင်မှုမှာ မြန်မာလူမျိုးအစိုးရမင်းများတို့က အရေးယူကြဖို့ အချက်ကြီးပေတည်း။

ထိုဆရာကြီးဟောချက်အတိုင်း ခေတ်ကိန်းဆိုက်ရောက်၍ ပေါ်ပေါက်လာသော်လည်း ကြီးကျယ်စွာမဖြစ်နိုင်လတ္တံ့။ ငါတို့နိုင်ငံမြို့ရွာတို့၌ ဤကဲ့သို့သောကပ်ဥပဒ်ဆိုးကြီးများကို ကာကွယ်ရန်အရေးအခွင့်ကြီးသည် ငါတို့နိုင်ငံမြို့ရွာရှိ ဆရာတော်သံဃာတော်တို့နှင့် သံဃသာမဂ္ဂီအသင်းကြီးများ၏တာဝန်ကြီးပေတည်း။ တာဝန်ဖြစ်ပုံကား– မြို့ရွာရှိဆရာတော်သံဃာတော်တို့မှာ ဆွမ်း,သင်္ကန်း,ကျောင်း,ဆေးပစ္စည်းလေးပါးမလုံမလောက်ရှိခဲ့လျှင် မြို့ရွာ၏တာဝန်ကြီးဖြစ်၏။ မြို့သူမြို့သားများညှဲ့ဖျင်းရာကြ၏။ မြို့ရွာတို့၏ကပ်ဥပဒ်အန္တရာယ်ပေါ်ပေါက်လာခဲ့သော် နေ့ချင်းညချင်းပျောက်ငြိမ်းအောင်ပြုလုပ်မှုသည် မြို့ရွာရှိဆရာတော်သံဃာတော်များ၏ တာဝန်ကြီးဖြစ်၏။ နေ့ရက်ရှည်ကြာဖြစ်ပွား၍နေခဲ့သော် မြို့ရွာဆရာတော်သံဃာတော်များညှဲ့ဖျင်းရာကြ၏။ ထို့ကြောင့် ကပ်ဥပဒ်ရေးနှင့် စိုးရိမ်ဖွယ်ရှိသောအခါများ၌ မြို့ရွာရှိဆရာတော်သံဃာတော်များက အန္တရာယ်ကင်းတတ်သောပရိတ်တော် ဂုဏ်တော်များကို နှုတ်တက်ရွရွ ဆောင်ရွက်၍ထားကြရမည်။

မြို့ရွာတို့၏ကပ်ဥပဒ်အန္တရာယ်များပေါ်ပေါက်လာခဲ့သော် မြို့ရွာရှိဆရာတော်သံဃာတော်များက အစည်းအဝေးကြီးပြုလုပ်ကြရမည်၊ မြို့ရွာရှိ လူကောင်းသူကောင်းများကိုလည်း အစည်းအဝေးသို့ ခေါ်ကြရမည်။ ပရိတ်ကြီးရွတ်ကြရန် သံဃအသင်းမှာလူသန်လူမြန် ကာလသားအသင်းများကို ဖွဲ့စည်းကြရမည်။ အသင်းတစ်ခုလျှင် ပရိတ်ရွတ်သူနှစ်ကျိပ်အောက်မနည်း, သုံးကျိပ်ထက်မများစေရ။ လူအသင်းတို့၏ပရိတ်တိုင်သူ ရဟန်းတော်တစ်ပါးစီပါရှိစေရမည်။ စာကိုကြည့်ရှု၍တိုင်လျှင် သာ၍ကောင်း၏။ တစ်သင်းနှင့်တစ်သင်း ခဲတကျထက်မနည်းစေရ။ ကပ်ဥပဒ်ရှိသော

အရပ်မှာ ထိုအရပ်ကိုပတ်မိအောင်လမ်းလျှောက်သွား၍ တညီတညာတည်း ကျယ်စွာ သောအသံဖြင့် ရွတ်ကြရမည်။

အရပ်အလယ်၌လည်း အရှေ့အနောက်ပေါက်အောင်သွား၍ ရွတ်ကြရမည်။ တောင်နှင့် မြောက်ပေါက်အောင်သွား၍ ရွတ်ကြရမည်။ တစ်ညရွတ်လျှင် အမှန်ငြိမ်း နေကြတည်း။ မငြိမ်းတတ်သေးရှိနေခဲ့လျှင် နှစ်ည,သုံးည ဆက်၍ရွတ်ကြရမည်။ ထိုအရပ်မှာ ထိုအန္တရာယ် ရပ်စဲငြိမ်းမှ တန်ကြရမည်။ မိုးအခါ၌ မိုးသည် ရက်ရှည် နေ့များခေါင်၍နေခဲ့သော် ထိုမြို့ရွာရှိ ဆရာတော်သံဃာတော်များ အစည်းအဝေးကြီး ပြုလုပ်ကြရမည်။ မည်သည့်နေ့မှာ မိုးပရိတ်ရွတ်မည်ဟု ချိန်းချက်၍ ဘုရားတန်ခိုးကြီး အနည်းအပါး၊ နတ်စင်တန်ခိုးကြီးအနည်းအပါး၌ နံနက်တစ်ကြိမ်, နေ့မွန်းတည့် တစ်ကြိမ်, ညနေတစ်ကြိမ်ဟူ၍ သုံးကြိမ်တိုင်တိုင်ရွတ်ကြရမည်။ တစ်ကြိမ်တစ်ကြိမ် မှာလည်း အခေါက်များစွာ အထပ်ထပ်ရွတ်ကြရမည်။ နှစ်ရက်အတွင်း, သုံးရက် အတွင်းမှာ မိုးကြီးစွာရွာတတ်၏။ တစ်နေ့ရွတ်၍မှ မိုးမရွာဘဲရှိခဲ့သော် နှစ်ရက်,သုံးရက် ဆက်၍ ရွတ်ကြရမည်။ မိုးရွာမှတန်ကြရမည်။

ကပ်ဥပဒ်အန္တရာယ်အတွက် ပရိတ်ရွတ်သံဃာများမှာလည်း အင်းအိုင်လက်ဖွဲ့ ဆေးဝါးစသော အန္တရာယ်အကွယ်အကာ အဆောင်ကောင်းများကို မိမိတို့ ကိုယ် အင်္ဂါ၌ အမြဲဆောင်ထားကြရမည်။ ဗုဒ္ဓဘာသာသာသနာတော်ကြီးတည်ရှိသော နိုင်ငံမြို့ရွာတို့၌ ထိုကဲ့သို့သော ကပ်ဥပဒ်ဆိုးကြီးများ နေ့ရက်ရှည်ကြာစွာဖြစ်ပွား၍ နေခဲ့သော် ဗုဒ္ဓဘာသာသာသနာတော်ကြီး၏ဘုန်းတန်ခိုး အညိုးကြီးညိုးရာရောက်၏။ မိစ္ဆာမျိုးတို့နေရာ နိုင်ငံမြို့ရွာများနှင့်မခြားနား အလားတူဖြစ်၍သွားလေ၏။ ကပ်ဥပဒ် အန္တရာယ်အတွက် ရဟန်းသံဃာများထွက်ပြေးကြရသည်။ ဘယ်ကျောင်းတိုက်ကြီး ပျက်ပြား၍သွားသည်ဟုဖြစ်ရချေသော် သံဃာတော်တို့၏ဘုန်းတန်ခိုး အညိုး ကြီး ညိုး၍သွားလေ၏။ ရဟန်းတော်ကြီး,ဆရာတော်ကြီး,သံဃာတော်ကြီး,ဘုန်းတော်ကြီး ဟု ဟိတ်သန်ဟန်သန်သာကြီးကြကုန်၏။ ဘေးဘယာမျိုးနှင့်တွေ့ကြုံခဲ့လျှင် လူများ ထက် ညံ့ဖျင်းကြကုန်၏ဟု ဘာသာတစ်ပါးလူမျိုးခြားတို့က ကဲ့ရဲ့ဖွယ်ဖြစ်ကြ၏။ သံဃသာမဂ္ဂီအသင်းကြီးများ ကျက်သရေအကုန်ပျက်၏။

ထိုဥပဒ်ကြီးများကိုလွှန်မြောက်နိုင်ကြစေရန် နိုင်ငံမြို့ရွာရှိ ဆရာတော်သံဃာတော် အပေါင်းတို့သည် အထက်ပြဆိုခဲ့ပြီးသော ခံတပ်မြို့တည်ချက်ကြီးကို မိမိတို့က ရှေးဦးစွာ ပြည့်စုံလုံလောက်အောင် ကြောင့်ကျစိုက်ထုတ်ကြရမည်။ မြို့ရွာနေ လူအပေါင်းတို့ကိုလည်း တညီတညာတည်း အားထုတ်ကြစေရန် နှိုးဆော်ကြီးကြပ် ကြရမည်။ ဆရာတော်သံဃာတော်တို့က ကြောင့်ကျမပြုမူ၍ ကမ္ဗသကာဟု လျစ်လျူ ရှု၍နေကြလျှင် နိုင်ငံမြို့ရွာရှိလူအပေါင်းတို့က မိမိတို့မြို့ရွာရှိ ဆရာတော် သံဃာ တော်များကို ကြောင့်ကျပြုကြစေရန် ကြပ်တည်းစွာနှိုးဆော်ကြရမည်။

အသင်းအတွက်နှင့် စက်ပရိတ်တော်ကြီးမှူများကိုအလိုရှိကြလျှင် ပျဉ်းမနား မြို့နေ ဆရာတော်ထံ စာပေးမှာယူသမှုပြု၍ ကူးယူကြရန်အတွက် တစ်သင်းလျှင် တစ်အုပ်ကျရနိုင်လိမ့်မည်။ ထိုမူကို သတင်းစာများမှလည်းထည့်လိမ့်မည်။ ဤ စက်ပရိတ်တော်ကြီးအရကျက်၍ နေ့စဉ် ရွတ်အံသောသူများမှာ ဘီလူးသဘက်ဘေး၊ လက်နက်ဘေး၊ ကပ်ဥပဒ်ဘေးအစရှိသော ဘေးအမျိုးမျိုးကိုကာကွယ်နိုင်၏။ ဤစက်ပရိတ်တော်ကြီးတွင်ပါရှိသော 'အဋ္ဌဝီသတိ' ဂါထာကို အခေါက်ပေါင်း–၃၀၀ ထက်မနည်း တစ်ခါတည်းရွတ်နိုင်ပါလျှင် ၂–ရက်, ၃–ရက်အတွင်း၌ မိုးရွာတတ်၏။ ငရုံ့မင်းပရိတ်ခေါ်သော မိုးပရိတ်တော်ကြီးလည်းရှိ၏။ ထိုပရိတ်တော်ကြီးကို အခေါက်များစွာရွတ်နိုင်လျှင် ၂–ရက်, ၃–ရက်အတွင်း၌ မိုးများရွာတတ်၏။ ပရိတ် ရွတ်မှု၌ တစ်ခုသောပရိတ်ကို အခေါက်ပေါင်းများများကြီးရွတ်နိုင်မှ ပရိတ်တန်ခိုး ထင်ရှားနိုင်၏။ မြို့ရွာမှာ ကပ်ဥပဒ်ရှိနေ၍ ပရိတ်ရွတ်ကြရာ၌ ရှင်အာနန္ဒာကဲ့သို့ မြို့လမ်းမတို့၌ မတ်တတ်လျှောက်သွား၍ ရှင်လူအသင်းများတို့ တညီတညာတည်း ရွတ်ကြသည့် ပရိတ်သံတို့သည် တစ်မြို့လုံးတစ်ရွာလုံးနှံ့ပြားစေနိုင်၏။ အကောင်း ဆုံးသောနည်းပေတည်း။

ထိုစက်ပရိတ်တော်ကြီးကို ရေကြောင်းခရီးမှာရွတ်အံ၍သွားလျှင် ရေမှာဖြစ်သော ဘေးအမျိုးမျိုးကို ကာကွယ်နိုင်၏။ တောတောင်သို့သွားလျှင် တောတောင်မှာ ဖြစ်သောဘေးအမျိုးမျိုးကို ကွယ်ကာနိုင်၏။ ဗုဒ္ဓဝင်ပါဠိတော်ကြီးမှထုတ်အပ်သော ပရိတ်တော်ကြီးပေတည်း။ အလွန်တရာ ကျက်လို့လွယ်၏။ ရွတ်ဖတ်၍လည်းချော မော၏။ 'ဗုဒ္ဓပူဇံ မဟာတေဇဝန္တော'ဟူသောပါဌ်နှင့်အညီ နောင်ဘဝအဆက်ဆက် ၌လည်း ဘုန်းတန်ခိုးကြီးတတ်၏။

'ဥပ္ပါတသန္တိ'ခေါ်သော ပရိတ်ကျမ်းလည်းတစ်ခုရှိ၏။ ပေစာတစ်အင်္ဂါမျှရှိ၏။ ယခုအခါ ကဝိမျက်မှန်စာပုံနှိပ်တိုက်မှာရနိုင်၏။ ဗုဒ္ဓဝင်ပါဠိတော်မှထုတ်အပ်သော ယိုးဒယားနိုင်ငံဖြစ်ကျမ်းပေတည်း။ ထိုပရိတ်ကျမ်းကို အိမ်၌ထား၍ နေ့စဉ်ရွတ်ဖတ် ကြပါလျှင် ဤကဲ့သို့သောကပ်ဥပဒ်မျိုးကို အလွန်ကွယ်ကာနိုင်သည်ဟု ရာဇဝင်ကျမ်း များတွင်လာရှိ၏။

ကမ္ဘာပေါ်၌ စစ်ကြီးတစ်ကြိမ်ပေါ်ခဲ့သော် ထိုနောက်မကြာမီ ကပ်ကြီးသုံးပါး ပေါ်လာမြဲတည်း။ ထိုကြောင့် ကမ္ဘာကိုကောင်းစေလိုသောသူများသည် ကမ္ဘာပေါ်၌ စစ်ရေးကြီးပေါ်လာ မည်ကိုအလိုမရှိအပ်။ အလိုရှိသောသူများသည် ကပ်ကြီးသုံးပါးဖြင့် ကမ္ဘာကိုပြာကျအောင်ပြုလိုသောသူများဖြစ်ကြ၏။ မိမိတို့ကိုးကွယ်ရာ ထာဝရဘုရားကြီး ကိုလည်း ပုန်ကန်ပုန်စားပြုရာကြ၏။ သေသည်မှနောက်၌ အနန္တ မီးငရဲကြီး၌ကျ၍ နှစ်ပေါင်းကုဋေများစွာခံရတတ်၏။ တိုင်းရှင်ပြည့်ရှင်မင်းများ သတိထားကြပါလေကုန်။

ဤကား ထိုဘေးဥပဒ်ကြီးများကိုကွယ်ကာနိုင်ရန် ခံတပ်မြို့ကြီးတည်ထောင်ပုံ တည်း။

အမိန့်တော်အရ ရေးသားဖော်ပြလိုက်ရပါသည်။

လယ်တီဦးဉေယျ

ပျဉ်းမနားမြို့။*၁

ဤအမိန့်ပြန်တမ်းသည် ရှင်လူအပေါင်းတို့အဖို့ လယ်တီဆရာတော်ဘုရားကြီး၏ နောက်ဆုံး ပိတ်အမှာပြန်တမ်းဖြစ်ပါသည်။ ဤပြန်တမ်းထုတ်ပြန်ပြီးသည့်အချိန်မှစ၍ ဆရာတော်ဘုရား ကြီး၏ ကျန်းမာရေးအခြေအနေမှာ များစွာချို့ယွင်းနေတော်မူပြီဖြစ်သည်။

**လယ်တီဆရာတော်ဘုရားကြီး၏ ကျန်းမာရေး**

သက္ကရာဇ် ၁၂၈၅–ခုနှစ်၊ နယုန်လ(အေဒီ ၁၉၂၃–ခုနှစ်၊ မေလ)သို့ရောက်ချိန်တွင် လယ်တီ ဆရာတော်ဘုရားကြီး၌စွဲကပ်လျက်ရှိသော လူကြီးရောဂါဝေဒနာမှာ ပိုမိုလွန်ကဲလာ၍ အင်အား ဆုတ်ယုတ်နည်းပါးတော်မူခဲ့လေသည်။ သို့ဖြစ်၍ ပျဉ်းမနားမြို့ သူဌေးဦးလန်း၊ ဒေါ်မမလေးတို့က ဆရာတော်ဘုရားကြီးအား ပျဉ်းမနား မြို့အနီး အင်ကြင်းမြောင်တောရစကြံကျောင်းမှပင့်ဆောင်၍ ပျဉ်းမနားမြို့တွင်းရှိ မိမိတို့၏တိုက်သစ်*၂ ကို စံကျောင်းအမှတ်ထား၍ သီတင်းသုံးစေတော်မူခဲ့ ပါသည်။ ဤသို့ခန္ဓာတော်ယိုယွင်းလာချိန်တွင် ကောင်းပေ့ဆိုသော သမားအမျိုးမျိုးကိုပင်၊ ညွှန့်ပေ့ဆိုသောဆေးဝါးအမျိုးမျိုးကိုဆက်သ,ပါသော်လည်း ဆရာတော်ဘုရားကြီးမှာ တစ်ခဏတာ မျှသာ သက်သာခွင့်ရတော်မူပါသည်။ ထိုတစ်ခဏတာမျှသက်သာတော်မူလျှင်ပင် အနီး၌ပြုစု နေသော ဦးဓမ္မစာရီအား–

'ဟေ့–မောင်ဓမ္မစာရီ၊ ယခု ငါ နိဗ္ဗာန်အဆုံးအဖြတ်ကိုရေးဦးမယ်၊ ခုနေသာ ရေးလိုက်ရရင် အရင်နိဗ္ဗာန်တရားထက် အများကြီးလင်းလာမှာ၊ အစားအသောက် မျှတလာပြီး နေကောင်းထိုင်သာရှိပေ့စေအုံးကွာ'ဟု ကြုံးဝါးမိန့်ဆိုတော်မူပါသည်။

လယ်တီဆရာတော်ဘုရားကြီးသည် ခေတ္တမျှသက်သာတော်မူသောတစ်ခဏမှာပင် အများ ရှင်လူတို့အတွက် ကျမ်းစာရေးသားရန် ဆန္ဒတော်မြတ်ထက်သန်နေသော်ငြားလည်း၊ အနီး၌ပြုစု နေကြရသောတပည့်တို့မှာကား ဆရာတော်ဘုရားကြီး၏နေ့အလိုက်ဆုတ်ယုတ်လာသော အခြေ အနေတို့ကိုကြည့်ရှု၍ တစ်ပါးနှင့်တစ်ပါးတိုင်ပင်ကြရတော့သည်။ သို့နှင့် မုံရွာ၊ စစ်ကိုင်း၊ မန္တလေး၊ ရန်ကုန်၊ မြစ်သား–စသည့်ဒေသအသီးသီးရှိ ရဟန်းတပည့်ကြီးများ၊ လူတပည့်ကြီးများကို အဆက်အသွယ်လုပ်အကြောင်းကြားထားရသည်။

သက္ကရာဇ် ၁၂၈၅–ခုနှစ်၊ ပထမဝါဆိုလဆန်း ၁၀–ရက် (အေဒီ–၂၂၊ ဇွန်လ၊ ၁၉၂၃–ခုနှစ်) သို့ရောက်ရှိလာပါသည်၊ ဆရာတော်ဘုရားကြီး၏ကျန်းမာရေးအခြေအနေ ဆုတ်ယုတ်လာနေသဖြင့်

*၁ ပညာ့အလင်းမဂ္ဂဇင်း၊ အတွဲ–၆၊ အမှတ်–၇။ ၁၉၂၃–ခုနှစ်၊ ဇူလိုင်လ။ (စာမျက်နှာ ၉၁–၉၆)။

*၂ ဤတိုက်သစ်စံကျောင်းသည် ပျဉ်းမနားမြို့လယ် မဂ်လာရပ် ရှေးအခေါ် တပ်ကားလမ်း(ယခုဗိုလ်တောက်ထိန်လမ်း)၌ တည်ရှိသည်။ မူလနှစ်ထပ်တိုက်ဖြစ်ပြီး ၁၉၅၇/၅၈ တွင် မီးဘေးသင့်၍ပျက်စီးသွားပြီး၊ ကျန်ရစ်သောအုတ်ရိုးကို အခြေခံ၍ တစ်ထပ်တိုက်အိမ်ပြန်လည်ဆောက်လုပ်ထားသည်။

အမြို့မြို့ အနယ်နယ်မှ တပည့်ရဟန်း,ရှင်,လူတို့ကလည်း ဆရာတော်ဘုရားကြီး၏ ကျန်းမာရေး အခြေအနေကောင်းမွန်လာစေရန် ဆုတောင်းပွဲများပြုလုပ်ကြသည်။ အချို့ကဆေးဝါးများ၊ အချို့က သင့်မည်ထင်သောဓာတ်စာအာဟာရများပို့ပေးကြသည်။ အချို့က သမားတော်များလမ်းညွှန် ပေးကြသည်။

ထိုစဉ်အတွင်း ရွှေမြို့ ဥဒေါင်းတောရဘုန်းကြီးဦးကုသလနှင့် သိမ်တောင်ဆည်ကြီးဆရာတော် ဦးဇဝနကိုယ်တော်နှစ်ပါးတို့သည် ကျေးဖူးရှင်ဆရာတော်ဘုရားကြီးထံတော်ပါးသို့ ထိုင်းနယ်စပ်မှ ခေတ္တရောက်ရှိနေသော အာဂန္တုရဟန်းတော်တစ်ပါးကို ပင့်ဆောင်လာကြသည်။ ထို ထိုင်းအာဂန္တု ရဟန်းတော်မှာ ဆေးဝါးအတတ်တွင်နှံ့စပ်သိကျွမ်းသည်ဆိုသဖြင့် ဆရာတော်ဘုရားကြီးအား ဖူးမြင်ပြီးလျှင် ရောဂါအခြေအနေများအကျိုးအကြောင်း မေးမြန်းလျှောက်ထားရန်ဖြစ်သည်။ ထိုအာဂန္တုရဟန်းတော်သည် ဆရာတော်ဘုရားကြီး၏စက္ခုဝေဒနာသက်ရောက်နေသည်ကို သိရှိလျှင် ဆရာတော်ဘုရားကြီးအား ထိုစက္ခုဝေဒနာကို သူကုပေးလျှင် ပြန်လည်အလင်းရနိုင် ပါမည်ဟု လျှောက်ထားခဲ့လေသည်။ ဆရာတော်ဘုရားကြီးမှာ မိမိ၌စွဲကပ်နေသော လူကြီးရောဂါ၊ အားနည်းသောရောဂါတို့ကိုမငဲ့ကွက်ဘဲ စက္ခုနှစ်ကွင်းအလင်းရလျှင် ရေးလိုသောစာပေကျမ်းဂန် တို့ကို တွင်တွင်ကြီးရေးနိုင်မည်ကိုစွဲ၍ 'ငါ့မျက်စိအလင်းရအောင်ကုနိုင်လျှင် ကုပေး'ဟု အမိန့် ရှိတော်မူလိုက်ပါသည်။

ထိုအခါ အာဂန္တုရဟန်းတော်က 'အစာဟောင်းများအနိုးရိုက်သဖြင့် စက္ခုတော်ကွယ်ရ သည်'ဟု အထင်ရှိပြီး သင်္ဘောမဲဇလီအရွက်များကို လက်တစ်ဆုပ်ခန့်ပြုတ်ကာ ဆရာတော်ဘုရား ကြီးအား စတင်၍တိုက်ကျွေးခဲ့လေသည်။ သင်္ဘောမဲဇလီရွက်မှာ ဝမ်းသွားစေသောအရွက် တစ်မျိုးပင်ဖြစ်သည်။ ဆရာတော်ဘုရားကြီးမှာ ရောဂါဝေဒနာ၏နှိပ်စက်မှုဒဏ် ဇရာဒုဗ္ဗလအရွယ် သက်တော်ကြီးရင့်မှု၏ဒဏ်တို့ထုထောင်းရိုက်ခတ်မှုကြောင့် ပင်ပန်းဆင်းရဲအားနည်းလျက်ရှိနေ သည်တွင် ယခုကဲ့သို့ ဝမ်းလွှန်ဆေးကိုတိုက်ကျွေးသောအခါ ဆရာတော်ဘုရားကြီးသည် ဝမ်းသွန် ကာ ပင်ပန်းခြင်းဖြစ်တော်မူလေသည်။ ထို့ကြောင့် အနားနေတပည့်များက အာဂန္တုကိုယ်တော်ကို အကျိုးအကြောင်းပြောကာ ဝမ်းရပ်အောင်လုပ်ပေးရန် တောင်းဆိုကြလေသည်။ ဆရာတော် ဘုရားကြီး ဝမ်းမရပ်သောအခါ ယိုးဒယားအာဂန္တုကိုယ်တော်သည် ထိတ်လန့်စိုးရိမ်လာသည်။ နောက်တနေ့တွင် မနက်အစောကြီးပင် မည်သူတစ်စုံတယောက်မျှ အသိမပေးဘဲ ထိုအာဂန္တု ကိုယ်တော်သည် ရှောင်ထွက်သွားလေတော့သည်။

ထိုအခါ ဦးဓမ္မစာရီ၊ ဦးဥေယျအစရှိသော တာဝန်ရှိတပည့်ကြီးများက ဦးကုသလနှင့် ဦးဇဝနတို့အားဆူပူကြပြီး 'ကိုယ်တော်တို့ဘုန်းကြီးကို ရှာပေးပါ'ဟု အာဂန္တုဘုန်းကြီးကိုရှာခိုင်း လေသည်။ ဦးကုသလတို့မှာလည်း ဆရာတော်ဘုရားကြီးအားကြည်ညိုသဖြင့် ဆေးကု ခိုင်းမိခြင်းသာဖြစ်ပြီး ထိုကိုယ်တော်၏ဇာတိရပ်ရွာကိုလည်း အသေအချာသိကြသည်မဟုတ်သဖြင့် မျက်စိမျက်နှာပျက်လျက် အပြောခံနေကြရရှာပါသည်။*၁

---

*၁ ဤအချက်တို့မှာ လယ်တီဦးဝဏ္ဏိတ(ဆရာကြီးဦးလှတင်)၏ ပြောပြချက်ဖြစ်သည်။

ကျေးဖူးရှင်ဆရာတော်ဘုရားကြီးမမာမကျန်းဖြစ်သည့်အချိန် ဂိလာနုပဋ္ဌာကအဖြစ် တာဝန်ယူခဲ့သော ဆရာတော်ဦးဇဝန၏ဖွင့်ဟချက်ကို ဤနေရာ၌ ကောက်နုတ်တင်ပြပါဦးမည်။

'ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးရေးသားစီရင်တော်မူသော ဥတ္တမပုရိသ ဒီပနီကျမ်း၌ 'မြတ်စွာဘုရား၏ ဘုရားမဖြစ်မီခန္ဓာအစဉ်နှင့် ဘုရားဖြစ်ပြီးသောခန္ဓာအစဉ် အဘယ်သို့ထူးခြားပါသနည်းဟူရာ၌– ဘုရားမဖြစ်မီခန္ဓာအစဉ်သည်ကား ကိလေသာ မာရ်ခေါ်သော ဓာတ်ညစ်ဓာတ်မဲအစု၊ အဘိသင်္ခါရမာရ်ခေါ်သော ဓာတ်စေးဓာတ်ချွဲ အစုနှင့်ရော၏။ ဘုရားဖြစ်ပြီးသော ခန္ဓာအစဉ်သည်ကား ထိုဓာတ်ညစ်ဓာတ်မဲ ဓာတ်ချွဲဓာတ်စေးစုမရှိပြီ။ ထိုဓာတ်ပုတ်ဓာတ်မဲ ဓာတ်ချွဲဓာတ်စေးရှိကြသော သေက္ခပုဂ္ဂိုလ်ပုထုဇဉ်ပုဂ္ဂိုလ်၏ သေပြီးသောအလောင်းသည် ပုပ်ခြင်း,ဟောင်ခြင်း ရှိကြသည်။ ဘုရားရဟန္တာတို့၏အလောင်းတော်မှာ ပုပ်သည်,နံသည်ဟူ၍ မရှိပြီ။ အသက်ဝိဉာဏ်ထင်ရှားရှိစဉ်မှာလည်း ဤနည်းအတူတည်း။ အစာအာဟာရချင်း တူကြသော်လည်း ဝင်းဝင်းတောက်ကြည်လင်ဖြူစင်သော နာမက္ခန္ဓာတို့မှ တစ်ကိုယ်လုံးမွှမ်း၍ ခြံ၍နေသောစိတ္တဇရုပ်တို့အတွက် တစ်ကိုယ်လုံးသည် အလွန်ဖြူစင်စွာ ဖွတ်လျှော်၍ထားသောဝါဂွမ်းအစုအခဲကဲ့သို့တည်း။ စက္ကြာမင်း၏ပတ္တမြားလုံးကို အလွန် နောက်လုစွာသောရေအိုင်တွင်းမှာ ချ၍ထားခဲ့လျှင် တစ်အိုင်လုံးသည် ပတ္တမြားရည် ကဲ့သို့ ကြည်ရ၏။ ဤအတူဘုရား ရဟန္တာတို့၏ ဇောခန္ဓာအစဉ်သည် စက္ကြာမင်း၏ ပတ္တမြားရတနာနှင့်တူ၏။ ခန္ဓာသည် ရေအိုင်ရှိရေနှင့်တူ၏။ ဤကား အပုပ်နံ့မရှိရာ၌ ယုတ္တိတည်း။'[၁] –ဟု ရေးသားထားတော်မူပါသည်။

ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးကိုယ်တိုင် ရေးသားစီရင်တော်မူသော ဥတ္တမပုရိသဒီပပနီကျမ်း၌ 'ဘုရားခန္ဓာတော်သည် ပုတ်သည်နံသည်မရှိ'ဟု ရေးသား ထားသည့်အတိုင်း ကျေးဇူးရှင်လယ်တီဆရာတော်ကြီး၏ခန္ဓာတော်သည် ပျဉ်းမနားမြို့ သူဌေးဦးလန်း၊ ဒေါ်မမလေးတို့၏တိုက်ပေါ်၌ မမာစဉ်သွားသောဝမ်းမှာ နွားနို့ခဲ ကဲ့သို့ဆွတ်ဆွတ်ဖြူ၍ရင်း၊ သွားသောဓာတ်များကို သူဌေးကြီးဦးလန်းတိုက် ရေတွင်း၌ သင်းပိုင်ဖွတ်လျှော်သောအခါ ယခုစာရေးသောဆရာတော်ကိုယ်တိုင် နမ်းကြည့်သည်။ ပုတ်ခြင်းဟောင်ခြင်း တခုမျှမနံတော့သည်။ ဓာတ်မှာ ဖယောင်းသားကဲ့သို့ စီးပိုင်နေ သည်။

ဆရာတော်ဘုရားကြီးကိုယ်တိုင် ရေးသားထားသည့်အတိုင်းနှင့် ဆရာတော် ဘုရားကြီး နာမ်ခန္ဓာရှိစဉ်ကပင် သွားသောဓာတ်များမှာ ပုတ်ခြင်း, နံခြင်းမရှိသည်ကို ဒိဋ္ဌတွေ့ရသဖြင့် ရေးသောစာနှင့် တထပ်တည်းဖြစ်နေသည်ကို ဉာဏ်ရှိသူတို့သိဖို့ ဖြစ်သည်။ ထိုအခါကပင် အံ့သြ၍မကုန်နိုင်အောင်ဖြစ်ခဲ့ပေသည်။

*၁ လယ်တီဆရာတော်ဘုရားကြီး၏ ဥတ္တမပုရိသဒီပနီ။ (စာမျက်နှာ–၁၅၂)။

ထို့နောက်ဆရာတော်ဘုရားကြီးသည် ထိုမျှလောက်ဝေဒနာခံစားနေရပါသော်လည်း ဝေဒနာတော်ကို ဘုရားအလောင်းတော်တေမိမင်းကြီး အတုမရှိသည်းခံသကဲ့သို့ ဆရာတော်ဘုရားကြီးသည် ဝေဒနာတော်ကို အတုမရှိသည်းခံတော်မူပြီးလျှင် အတုမရှိသောအနတ္တတရားတော်မြတ်ကြီးကို တပည့်ရဟန်းရှင်လူအပေါင်းကို ဟောတော်မူလေသည်။ ဟောရင်းဟောရင်းနှင့် မောသွားသည်။ အသံမထွက်တော့ပြီ။ အသံမထွက်သော်လည်း ပါးစပ်ကလှုပ်လှုပ်နှင့် ဟောလျက်ပင်ရှိသေးသည်၊ တော်တော်ကြာအသက်ကောင်းစွာမရှုနိုင်တော့ပြီ။ ငါးမိနစ်,ဆယ်မိနစ်မှ တခါလောက်ရှူရတော့ပြီ။ လုံးလုံးပျောက်သွားသည်။ အနားရှိသောတပည့်များက နာရီဝက်လောက်စောင့်ကြည့်ပြီး သွေးစမ်းကြည့်သောအခါ သွေးမရှိတော့ပြီ။ ထိုအခါ ကြေးစည်ထိုး၍အားလုံးငိုကြသည်။ သုံးနာရီလောက်ကြာသောအခါ 'ဟော့–မောင်ပျော့တို့လာပါအုံး၊ အနတ္တတရားကြီးအဖိုးတန်လွန်းလို့ ဘဝမပြောင်းမီ ပါးစပ်ကိုအသုံးချခဲ့ပါရစေ'ဟု ခေါ်၍ အနတ္တတရားကြီးကို ဟောတော်မူပြန်သည်။

'ဆရာတော်ဘုရား မောပါပြီ၊ သည်းခံတော်မူပါဘုရား'–ဟု လျှောက်ထားသော်လည်း အနတ္တတရားကြီးကို ဟောမြဲတိုင်းဟောတော်မူသည်၊ ထို့အတူမော၍ အသက်မရှိသကဲ့သို့ ဖြစ်သွားပြန်သည်။ ကြေးစည်ထိုး၍ငိုကြပြန်သည်။ တစ်နေ့လျှင် နှစ်ခါလောက်ဖြစ်သည်။

ယခုကဲ့သို့ ဆရာတော်ဘုရားကြီးရုပ်နာမ်ခန္ဓာမှ သက်လျောသော ဓာတ်များအပုပ်နံ့မနံခြင်းမှာ လွန်စွာထူးဆန်းအံ့သြမကုန်နိုင်အောင်ဖြစ်သည်တစ်ချက်။ အနတ္တတရားတော်ကြီးကို နစ်မြောသွားအောင်ဟောတော်မူပြီး လည်လာသောအခါ လွန်စွာကြည်လင်အောင်မြင်သောအသံကြီးနှင့် 'ဟော့–မောင်ပျော့တို့ လာကြပါအုံး၊ လာကြပါအုံး'လို့ ခေါ်နိုင်တော်မူခြင်းသည် အဘယ့်အတွက်ကဲ့သို့ အသံတော်ကြည်လင်အောင်မည်ရခြင်းဖြစ်သနည်းဟု ဆရာဦးမောင်ကြီးကို ဆရာတော်ကိုယ်တိုင်မေးကြည့်သောအခါ ဆရာတော်ကို ကျေးဇူးရှင်ဆရာတော်ကြီးက 'ငါ လက်ပတောင်းတောင် တရားအားထုတ်စဉ်က အာနာပါနကမ္မဋ္ဌာန်းကိုအားထုတ်သောအခါ ပဋိဘာဂနိမိတ်အကြည်ဓာတ်ကြီးရ၍ လွန်စွာခိုင်မြဲသောအခါ ဝသီဘော်ငါးပါးကို နိုင်နင်းစွာကစားသွား၍ နိမိတ်ကိုချဲ့၍ချဲ့၍ စကြဝဠာကြီးတစ်ခုလုံး ပဋိဘာဂနိမိတ်ကိုဖြည့်ကြည့်ပြီးလျှင် ပြန်၍ရုပ်သိမ်းသောအခါ ဟိုတထစ်သည်တထစ်ဖြစ်၍ စကွဲကွဲကုန်သည်'ဟု ဆရာတော်ကိုအမိန့်ရှိသွားဖူးသည်ဟု ဦးမောင်ကြီးကပြောပြပါသည်။*၁ သို့အတွက် နစ်မြောသွားသောအခါတိုင်း သမာဓိအကြည်တော်ကြီးနှင့်နေလို့ ထိုကဲ့သို့ အသံတော်ကြီး ကြည်ကြည်လင်လင်ဖြစ်လာသည်ဟု ထင်မြင်သဘောရသည်

*၁ လက်ပတောင်းတောင်၌ ကမ္မဋ္ဌာန်းအားထုတ်စဉ် ဥဂ္ဂဟနိမိတ်ကိုရ၍ ဝသီဘော်ပိုင်သောကြောင့်ဟုလည်းဆုံးဖြတ်ကြသည်။ ဆရာစိုး၏ လယ်တီဆရာတော်ဘုရားကြီးအတ္ထုပ္ပတ္တိအကျဉ်းချုပ်။ (စာမျက်နှာ–၁၇)။

တစ်ချက်။ အနတ္တတရားကို ထိုမျှလောက်နစ်မြောသွားအောင်ဟောတော်မူခြင်းသည် အနတ္တအချက်ကြီး ပိုင်ပိုင်နိုင်နိုင်ထင်မြင်နေလို့ အေးငြိမ်းမှုသန္တိတရားကြီးနှင့်တွေ့နေလို့ ထိုကဲ့သို့ ကြည်ကြည်လင်လင် အသံတော်ကြီးထွက်လာသည်ဟု ဦးမောင်ကြီးနှင့် ဆရာတော်တို့ ယူဆကြသည်တချက် - ဟူ၍ဖြစ်ပါသည်။*၁

ပျဉ်းမနား၊ တောင်သာ၊ မန္တလေးစသည်တို့မှ မြန်မာဆေးဆရာအကျော်အမော်များသည်လည်း ဆရာတော်ဘုရားကြီး၏အနားသို့ရောက်လာကြကာ မိမိတို့ဆိုင်ရာဆေးဝါးကုသမှုဖြင့် ပြုစုစောင့်ရှောက်ကြလေသည်။ ဦးဓမ္မစာရီက မန္တလေးရှိ ဆရာတော်ဘုရားကြီး၏သမားတော် ဦးကျော်ရန်ထံသို့အကျိုးအကြောင်းသံကြိုးရိုက်သော် ဦးကျော်ရန်မှာလည်း မကျန်းမမာသောကြောင့် မလာနိုင်ကြောင်းစာပြန်ပြီးလျှင် အာယုဝဍ္ဎသုခဝတီဆေးကိုသာ ပေးပို့နိုင်ခဲ့သည်။ ဦးဓမ္မစာရီက အနီးရှိတပည့်ကြီးများ၊ ဒါယကာမကြီးများနှင့် တပည့်ရဟန်းတော်များနှင့်တိုင်ပင်ပြီး တပည့်ကြီးများထံ ကြေးနန်းသံကြိုးများရိုက်၍ အမြန်လာကြရန်အကြောင်းကြားလိုက်၏။ တပည့်ကြီးများသည်လည်း ကြေးနန်းရလျှင်ရခြင်း ထွက်လာကြသဖြင့် လူစုံတက်စုံရောက်နေပြီးဖြစ်သည်။

ဤအချိန်တွင် မိုးညှင်းကိုယ်တော်၊ လယ်တီဦးဝဏ္ဏိတ၊ လယ်တီဦးပဒုမ၊ သေကျွဲတောင်ဦးတိလောက၊ လယ်တီဦးဥေယျ၊ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးစသူတို့ထံသို့ 'ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး မရဏန္တိကဝေဒနာသို့ရောက်နေပါပြီ၊ အမြန်ကြွလာစေလိုကြောင်း' အကြောင်းကြားစာပေးပို့လေသည်။ မိုးညှင်းကိုယ်တော်သည် ဆရာတော်ဘုရားကြီးပျံလွန်မမူမီ ရက်သတ္တပတ်(ခုနစ်ရက်)အလို ၁၂၈၅-ခုနှစ်၊ ပထမဝါဆိုလဆန်း ၈-ရက် (အေဒီ-၂၀၊ ဇွန်လ၊ ၁၉၂၃-ခုနှစ်)တွင် ပျဉ်းမနားသို့ လိုက်လာပြီးလျှင် ကျေးဇူးရှင်ကြီးအထံသို့ ခြေတော်ဦးခိုက်ခဲ့လေသည်။ ခြေတော်စုံကို ဦးထိပ်နှင့်တိုက်ကာ အကြိမ်ကြိမ်ရှိခိုးပြီးလျှင် အပြစ်ကြီးအပြစ်ငယ်တို့ခွင့်လွှတ်ပါရန် တောင်းပန်ရှိခိုးလျက် ကျေးဇူးရှင်ကြီး၏ခြေသလုံးတော်ကို နှိပ်နယ်နေစဉ်-

'အင်း-ဘသူတုန်း၊ မိုးညှင်းကိုယ်တော်လား'

'မှန်လှပါဘုရား'

'အေးကွယ်၊ ဝိပဿနာသာသနာကို ကြိုးစားပြုပေဟ့၊ ငါမရှိပေမယ့် စာတွေရှိနေတယ်၊ ဒီပနီတွေရှိနေတယ်၊ ငါ့ကိုယ်စားထားပြီး အားထားရစ်ကွဲ့'ဟု မှာတော်မူနိုင်ပါသေးသည်။

မိုးညှင်းကိုယ်တော်အရှင်သည် ကျေးဇူးရှင်ကြီးအား နောက်ဆုံးပူဇော်သည့်အနေဖြင့် အနတ္တဒီပနီကျမ်းကို နေ့စဉ်ဖတ်ပြပူဇော်သည်။ ထိုအခါ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးသည်-

'အေးကွဲ့-ကောင်းလိုက်တာကွယ်၊ အနတ္တဒေသနာနာရတော့ အဘဘုရား အနတ္တသုတ်ဟောပုံကို မြင်ပြီးကြည်ညိုလိုက်တာကွယ်၊ ဘုရားတကယ်ကြွလာသလိုပဲကွဲ့။ 'လယ်တီချစ်သားရယ်၊ လူ့ပြည်ကို အဘိဓမ္မာတရားဟောပြီးပြီ၊ နတ်ပြည်ကို တစ်လှည့်ဟောဖို့အချိန်ရောက်နေပြီ ချစ်သားရယ်'ဟု ဘုရားကိုယ်တော်တိုင် ငါ၏

*၁ ဗုဒ္ဓဓမ္မလောကစာစောင်။ အတွဲ-၁၊ အမှတ်-၄၆။ (၂၂-၇-၁၉၅၆)ခုနှစ်ထုတ်မှ။

ခေါင်းရင်းကမိန့်တော်မူသံကို ကြားနေရသလိုပဲကွယ်’ဟု လယ်တီဆရာတော်ဘုရားကြီး မိန့်တော်မူသေးသည်။*၁

**ဆရာတော်ဘုရားကြီး၏ အန္တိမဆန္ဒ**

ပထမဝါဆိုလပြည့်နေ့သို့ကူးလာသည်။ ကျေးဖူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် မိမိကိုယ်ဝယ် အသက်ကိုပင်ချွေမည့် ဇီဝိတပရိယာဒါနရောဂါကြီးစွဲကပ်နေသော်လည်း မျက်နှာတော် ရှုံ့မဲ့ဖောက်ပြန်ခြင်းအလျဉ်းမရှိဘဲ အမိဝါသနခန္တီ နှလုံးအမြဲသုံးတော်မူလျက်ရှိနေပါသည်။ ဆရာတော်ဘုရားကြီးသည် မည်မျှပင်ရောဂါဝေဒနာပြင်းပြင်းထန်ထန်ခံစားနေရပါမူ ဖြစ်ပျက်ပြုပြင်နေသော သင်္ခါရတရားအစုအဝေးကြီးကိုလည်း မျက်ခြေမပြတ် သတိပြုဆင်ခြင်လျက်သာ ရှိတော်မူပါသည်။

ဆရာတော်ဘုရားကြီး၏ရုပ်ခန္ဓာမှာ အလွန်နွမ်းလျလျက်ရှိပြီး အရိုးပေါ်အရေမျှသာတင်ကျန်နေသော်လည်း ဆရာတော်ဘုရားကြီး၏စိတ်ဓာတ်တော်ကား ပြင်းပြလျက်ပင်ရှိသေးသည်။ ဆရာတော်ဘုရားကြီးသည် မိမိကိုဝတ်ဖြည့်နေသော ဒကာကြီးဦးဖိုးပျော့အား ‘ငါ့ဝမ်းထဲမှာ အူတွေဟာ ငါးတွေမြူးနေသလိုပဲ’ဟုမိန့်ကြားပြီး အသာမိန်းနေတော်မူသည်။ ခဏကြာလျှင် ဦးဖိုးပျော့အား အနားသို့ခေါ်ပြီးလျှင် ‘မောင်ပျော့ရာ မာလကာရွက်တစ်ဆုပ်လောက်ထောင်းယူခဲ့စမ်း’ဟု အမိန့်ရှိတော်မူပြန်သည်။ ဆရာတော်ဘုရားကြီး၏စိတ်တော်အထင်၌ မိမိ၏ဝမ်းလွန်ရောဂါကို မာလကာရွက်ထောင်းပြီးသောက်သုံးလိုက်ပါက ချုပ်သွားမည်ဟုယူဆဟန်ရှိပါသည်။ ဦးခမ္မစာရီစသော တပည့်ကြီးများက ဆရာတော်ဘုရားကြီးပင်ပန်းတော်မူမည်စိုးသောကြောင့် မည်သည့်ဆေးဝါးကိုမျှ အစမ်းမခံတော့ပေ။ ဦးဖိုးပျော့ကိုလည်း ငြိမ်နေရန်အမှတ်ပေးထားကြ၏။

ထိုအချိန်ထိ ဆရာတော်ဘုရားကြီး၏အသံတော်မှာ တင်းတင်းမာမာနှင့် ခါတိုင်းမိန့်ကြားနေသလိုပင်ရှိနေသေး၏။ ခဏကြာပြန်လျှင် ဦးဖိုးပျော့သို့ ‘ဒီရောဂါကပျောက်ကင်းထမြောက်လျှင် ဒို့ဗမာတိုင်းပြည်နဲ့တော်တဲ့ လူတွေနားလည်မယ့်နိဗ္ဗာန်တရားကိုငါရေးမယ်’ဟု လည်းကောင်း၊ ‘ရှေးကရေးထားတဲ့ နိဗ္ဗာန်တရားက ပညာရှိတွေအတွက်ကွဲ့၊ လူပြိန်းတွေအတွက် အခု ထပ်ရေးရဦးမယ် မောင်ပျော့ရဲ့’ဟုလည်းကောင်း မိမိစိတ်ထဲ၌ရှိနေသောဆန္ဒတော်ကို မိန့်ကြားတော်မူပြန်ပါသည်။

ကျေးဇူးရှင်ဆရာတော်ဘုရားကြီး၏ရောဂါအခြေအနေသည် တိုး၍တိုး၍ဆိုးဝါးနေရကား ကျေးဇူးရှင်ဆရာတော်ဘုရားကြီးအား ဦးလန်းစံကျောင်းတိုက်၏အိမ်ရှေ့ခန်းညွှဲခံနေရာမှ အနောက်ဘက်ကျယ်ဝန်းသောအခန်းနေရာသို့ ရွှေ့ပြောင်းစံနေစေရပါသည်။

ကျေးဇူးရှင်ဆရာတော်ဘုရားကြီး ကျန်းမာတော်မူစဉ်အခါက ‘ငါမကျန်းမမာရှိလျှင် ပဋ္ဌာန်းပစ္စယဝါရ ပါဠိတော်ကြီးကိုရွတ်ဖတ်ကြရမည်။ ပဋ္ဌာန်းသံကြီးကိုကြားနာလိုသည်’ဟု မိန့်တော်မူဖူး

*၁ နေရင်းဦးကောဝိဒ၏ မိုးညှင်းထေရာပဒါန်။ ၁၃၃၃-ခုနှစ်။ (စာမျက်နှာ-၂၀၄၊ ၂၀၅)။



လယ်တီဆရာတော်ကြီး
သီတင်းသုံးရာ
ပျဉ်းမနားမြို့
ကျောင်းဒကာကြီး
ဦးလန်း၏
မူလနှစ်ထပ်ပါ
တိုက်သစ်စံကျောင်းပုံ



ထိုတိုက်သစ်စံကျောင်းသည်
ဒုတိယကမ္ဘာစစ်အတွင်းက
ပျက်စီးခဲ့၍
ယခုအခါတစ်ထပ်တိုက်အဖြစ်
ပြန်လည်ပြုပြင်ထားပုံ



လယ်တီဆရာတော်ကြီး၏ရုပ်ကလာပ်တော်ပုံ

လေရာ ဦးဓမ္မစာရီ ဦးဥေယျနှင့် ဦးတိလောကစသောတပည့်ကြီးများက ယခုအချိန်၌ ဆရာတော်ဘုရားကြီးကြားနားလိုသော ပဋ္ဌာန်းပစ္စယဝါရပါဠိတော်ကြီး ရွတ်ဖတ်ပေးရသော် သင့်မည်ဟုတိုင်ပင်ကြပြီးလျှင် လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၊ ဦးပဒုမ၊ ဦးဝဏ္ဏိတတို့အား ရွတ်ဖတ်ဖို့ ပြင်ဆင်ပန်ကြားကြ၏။

ထို့နောက် ရောဂါဝေဒနာတို့ ထုထောင်းမှုဒဏ်ကြောင့် လဲလျောင်းကာစံတော်မူရသော ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏နံဘေး ဝဲယာ၌ တပည့်ကြီးများဖြစ်ကြသော ဦးဝဏ္ဏိတ၊ ဦးပဒုမ၊ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၊ သေကျွတောင်ဦးတိလောကတို့နေရာယူကြပြီး ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးအား ပဋ္ဌာန်းပစ္စယဝါရပါဠိတော်ကြီးကို ရွတ်ဖတ်ပေးပါမည့် အကြောင်းခွင့်ပန်ကြကာ နေ့ ၁၂–နာရီတိတိအချိန်တွင် လယ်တီဦးဝဏ္ဏိတကိုယ်တော်က စတင်ရွတ်ဆိုပါသည်။ ပြီးလျှင် ဦးပဒုမ၊ ဦးမောင်ကြီး၊ ဦးတိလောကအရှင်မြတ်တို့ အစဉ်အတိုင်း ရွတ်ဆိုခဲ့ရာ ဦးတိလောကအရှင်မြတ်၏ရွတ်ဆိုသံပြီးဆုံးသော နေ့ ၂–နာရီ၊ ၃၀–မိနစ်အချိန်တွင် ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် သင်္ခါရတရားတို့၏လက္ခဏာတော်ကို နှလုံးသွင်းဆင်ခြင် ဝေဒနာကိုသည်းခံတော်မူလျက် မလွတ်သောသတိသမ္ပဇဉ်ဖြင့် အေးချမ်းငြိမ်သက်စွာ စုတိကမ္မဇရုပ်ချုပ်ငြိမ်း၍ ခန္ဓာကိုယ်ဇာတ်ကိုရုပ်သိမ်းတော်မူခဲ့လေပြီ။ ။

## လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်
## [နဝမပိုင်း]
## လယ်တီဆရာတော်ဘုရားကြီး၏ အန္တိမ ဈာပနပူဇော်ပွဲ
## (သက္ကရာဇ် ၁၂၈၅–ခုနှစ်)*၁

### နေမင်းကြီးတစ်ဆူဝင်တော်မူလေပြီ

လဇ္ဇီပေသလ သီလဝန္တ သိက္ခာကာမ ပိဋကတ္တယဆောက ပိဋကတ္တယ ဝိသာရဒဖြစ်တော်မူသော အဂ္ဂမဟာပဏ္ဍိတ, ဒီလစ်ဘွဲ့တံဆိပ်တော်ရ မုံရွာမြို့ အရညဝါသီ ကျေးဖူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၈၅–ခုနှစ်၊ ပထမဝါဆိုလပြည့် (အေဒီ ၂၇၊ ဇွန်လ၊ ၁၉၂၃–ခုနှစ်)၊ နေ့ (၂) နာရီခွဲအချိန် ကျောင်းဒါယကာဦးလန်း၏ ပျဉ်းမနားမြို့လယ် တိုက်သစ်စံကျောင်းတော်တွင် ဘုရား,ပစ္စေကဗုဒ္ဓါ,ရဟန္တာအရှင်မြတ်တို့သော်မှ မရှောင်လွှဲသာသည့်မရဏာ လမ်းသို့ ပြောင်းကြွစံမြန်းတော်မူကာ အနောက်ဂေါယာကျွန်းသို့ နေမင်းကြီး တစ်ဆူကွယ်ဝင်သကဲ့သို့ ကွယ်ဝင်တော်မူခဲ့လေပြီဖြစ်ရကား ဗုဒ္ဓမြတ်စွာသာသနာ တော်ရောင်သည် မပြောင်မထွန်း အမှောင်စွန်းခဲ့ရပြီဖြစ်ပါသည်။

ဤသို့လယ်တီဆရာတော်ဘုရားကြီး ဘဝနတ်ကျောင်းပြောင်းရွှေ့စံမြန်း တော်မူပြီဖြစ်ကြောင်းကို သိလျှင်သိကြခြင်း ဦးလန်းတိုက်သစ်စံကျောင်းတော် အတွင်းရှိ လူကြီး,လူငယ်အသွယ်သွယ်တို့သည်လည်းကောင်း၊ ဒါယကာကြီး, ဒါယကာမကြီးအပေါင်းတို့သည်လည်းကောင်း၊ ဆယ်ဝါ,ဝါနှစ်ဆယ် အရွယ် လွန်ပြီးသော မထေရ်ကြီးတို့သည်လည်းကောင်း၊ ငါးဝါအစ ကိုးဝါရောက်တုံ သီတင်းလတ်ဖြစ်ကြကုန်သောရဟန်းတော်တို့သည်လည်းကောင်း၊ ငါးဝါ ပြည့်ကြွယ်သီတင်းငယ်ဖြစ်ကြကုန်သောရဟန်းတော်တို့သည်လည်းကောင်း လက်မောင်းတို့ကိုချိုးမြှောက်ကြကုန်၍ မျက်ရည်ထွေစီး ငိုပွဲကြီးဆင်ကြလေကုန်ပြီ။ အချို့သောရဟန်းရှင်လူတို့သည် မြေ၌လဲကြကုန်ပြီ၊*၂ ဦးလန်းတိုက်သစ်စံကျောင်း

---

*၁ အေဒီ ၁၉၂၃–ခုနှစ်၊ ဇွန်လမှ အေဒီ ၁၉၂၄–ခုနှစ်၊ မတ်လအထိဖြစ်သည်။

*၂ ပထမကျော်လယ်တီဦးကောဝိဒ၏လယ်တီမဟာထေရုပ္ပတ္တိ(လက်ရေးမူ)။ (ဂါထာအမှတ်–၄၂၅)။ မောင်ကြည်ရှင်၏ သလ္လာဝတီမှအင်ကြင်းမြိုင်သို့ (ဆောင်းပါး)။ သွေးသောက်မဂ္ဂဇင်း။ ၁၉၅၉–ခုနှစ်၊ ဖေဖော်ဝါရီလ။ (စာမျက်နှာ–၁၂၈)။

၌ချိတ်ဆွဲထားသော တုံးမောင်းကိုလည်း တန္ခဲ့န္ခဲ့တီးခတ်ခဲ့လေပြီ။ ထိုအခါဝယ် မြေငလျင်ကြီးစွာ တုန်လှုပ်ခဲ့လေပြီ။*၁

ထိုသောအခါ လယ်တီဆရာတော်ဘုရားကြီး၏တပည့်သံဃာ့ပရိသတ်တွင် အကြီးအရင့် ထေရ်ကြီးတစ်ပါးဖြစ်သော သေက္ခတောင်ဘုန်းကြီးအရှင်တိလောကသည် တိုင်းသူပြည်သား ရှင်လူအများတို့အား ကျေးဇူးရှင်ဆရာတော်ဘုရားကြီး ဘဝနတ်နန်းမြန်းကြွတော်မူပြီဖြစ်ကြောင်းကို သိရှိကြစေရန်အလို့ငှာ ‘လယ်တီလယ မိဝါသိနော’ အစချီသော ဝိညာပနိယ ခုနစ်ဂါထာရေးဖွဲ့ကာ အသိပေးကြေညာတော်မူခဲ့ပါသည်။*၂

ထို့နောက်ဆရာတော်ဘုရားကြီး၏ရုပ်ကလာပ်တော်ကို ဦးလန်းတိုက်သစ်စံကျောင်း အရှေ့မြောက်ထောင့်ရှိခန်းမနေရာတွင် ခုတင်ကြီးနှင့်တကွ ကောင်းမွန်ကျနစွာပြင်ဆင်၍ ပူဇော်ထားရှိကြလေသည်။ ပျဉ်းမနားမြို့ပေါ်ရှိတပည့်သံဃာတော်များ၊ ဒါယကာ,ဒါယိကာမများ၊ ထို့နောက် ပျဉ်းမနားမြို့အနီးရှိ ကျေးရွာများမှ ရဟန်းရှင်လူပရိသတ်များ၊ ထိုမှတဖန် ရွှေမြို့မှ၊ တပ်ကုန်းမှ၊ ပျော်ဘွယ်မှ၊ မိတ္ထီလာမှ၊ မြစ်သားမှ၊ သဲတောဝမ်းတွင်းမှ၊ တောင်သာမှ၊ မန္တလေးမြို့မှ၊ ပြည်မှ၊ ရွှေတောင်မှ၊ လက်ပန်တန်းမှ၊ ထို့နောက် ရန်ကုန် စသည့်မြို့ရွာတို့မှ ရဟန်းရှင်လူ ပရိသတ်များ တဖွဲဖွဲလာရောက်ကြ၍ လယ်တီဆရာတော်ဘုရားကြီး ရုပ်ကလာပ်တော်ကိုပူဇော် ဦးခိုက်ကြရာတွင် ဦးလန်းတိုက်သစ်စံကျောင်းမျှကိုမဆိုထားဘိ ပျဉ်းမနားမြို့ငယ်ကလေးသည်ပင် ကွဲအက်လုဘနန်း ရှင်လူပရိသတ်တို့ဖြင့် တင်းကြမ်းပြည့်ကျပ်စည်ကားလျက်ရှိခဲ့သည်။

ဤအချိန်တွင် ပျဉ်းမနားမြို့ငွေတောင်ထိပ်ရှိ လယ်တီစံကျောင်းတိုက်အနီး သရက်ပင်ငယ် တစ်ပင်သည် အချိန်အခါမဟုတ်ပါဘဲ အံ့သြဖွယ်ရာ အရင်းမှသည်အဖျားသို့တိုင် ပင်လုံးကျွတ် အပွင့်အသီးများဝေဝေဆာဆာပွင့်သီးခဲ့သည်။*၃ ထို့ပြင် လယ်တီဆရာတော်ဘုရားကြီး ဘဝနတ်ထံ စံလွန်တော်မူချိန်နှင့်တစ်ချိန်တည်းဆိုသလို ပျဉ်းမနားမြို့ပေါ်တွင် လေးဂိုဏ်းထောက်ကျောင်းက ဆရာတော်ကြီး*၄၊ ပခန်းဆရာတော်ကြီး *၅ ပျဉ်းမနားမြို့ အနောက်တောင်သပြေလှရှိ ကန်ဦး ကျောင်းဆရာတော်ကြီးစသည် ဆရာတော်ကြီးအချို့တို့ တစ်ပြိုင်နက်စံလွန်တော်မူကြရာ

---

*၁ ဓမ္မာစရိယဦးဌေးလှိုင်၏ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများ။ ၁၉၈၉–ခုနှစ်။ (စာမျက်နှာ–၃၄၀)။

*၂ မောင်ရွှေ၏လယ်တီမဟာထေရုပ္ပတ္တိကထာ။ ၁၂၈၅–ခုနှစ်။ (စာမျက်နှာ ၁၈–၂၃)။

*၃ နေရင်းဦးကောဝိဒ၏မိုးညှင်းမဟာထေရာပဒါန်။၁၃၃၃–ခုနှစ်။(စာမျက်နှာ–၂၄၀)။ဤသို့သရက်ပင်မှအသီးအပွင့်ဝေဆာသည်ကို မိုးညှင်းကိုယ်တော်ဦးသုမနက ‘သရက်ဆိုတာသောကြာနံ၊မိမိသည်လည်းသောကြာသား၊သို့ဖြစ်၍မိမိကောင်းစားဖို့ရာကိုဆရာတော်ဘုရားကြီး၏ဘုန်းတန်ခိုးတော်ဖြင့်နိမိတ်ပြကြောင်း’–စသည်မိန့်ကြားခဲ့ပါသည်။ယင်း။(စာမျက်နှာ–၂၅၀)

*၄ လေးဂိုဏ်းထောက်ကျောင်းသည် ပျဉ်းမနားမြို့ မြို့ပတ်လမ်းအရှေ့ဘက်တွင်တည်ရှိသည်။ လေးဂိုဏ်းထောက် ဆရာတော်ကြီးသည် သက်တော်(၈၄)ဝါ၊ ဝါတော်(၆၄)ဝါအရတွင် ပျံလွန်တော်မူခြင်းဖြစ်သည်။

*၅ ပခန်းကြီးကျောင်းသည် ပျဉ်းမနားမြို့အရှေ့မြောက်အရပ် မစိုးရိမ်အရှေ့ရပ်ကွက် မြို့ပတ်လမ်း၏အရှေ့ဘက်တွင် တည်ရှိသည်။ ပခန်းဆရာတော်ကြီးသည် သက်တော်(၉၁)ဝါ၊ ဝါတော်(၇၁)ဝါတွင် ပျံလွန်တော်မူခြင်းဖြစ်သည်။ ဤဆရာတော်ကြီး ပျံလွန်သောအခါ ကျောင်းဝင်းအတွင်း၌ သီးပွင့်ပြီးသောပေပင်ကြီးတစ်ပင်မှ နောက်ထပ်တဖန်သီးပွင့်ကြောင်းတွေ့ကြရပါသည်။



ပျဉ်းမနားမြို့၊ လယ်တီစံကျောင်းအတွင်းရှိ
သရက်ပင်



လယ်တီဆရာတော်ကြီး၏ အန္တိမဈာပနပွဲကျင်းပသောနေရာ

လယ်တီဆရာတော်ကြီး၏ အန္တိမဈာပနဥဒကပူဇာကျင်းပရာ ပျဉ်းမနားမြို့လယ် ရှမ်းကန်ကြီး

ပျဉ်းမနားမြို့သူမြို့သားတို့သည် တစ်ကျောင်းမှတစ်ကျောင်းသို့လှည့်လည်၍ သာဓုကီဠနသဘင် ဆင်ယင်ပူဇော်ခဲ့ကြရပါသည်။

**ပျဉ်းမနားမြို့ရှာပနအစည်းအဝေး**

လယ်တီဆရာတော်ဘုရားကြီး ဘဝနတ်ကျောင်းပြောင်းရွှေ့စံမြန်းတော်မူပြီးသည့် နှစ်ရက် မြောက်သော သက္ကရာဇ် ၁၂၈၅–ခုနှစ်၊ ပထမဝါဆိုလဆုတ်(၂)ရက် (အေဒီ–၂၉၊ ဇွန်လ၊ ၁၉၂၃– ခုနှစ်)တွင် ဆရာတော်ဘုရားကြီး၏ ဘဝနတ်ထံစံလွန်တော်မူရာ ပျဉ်းမနားမြို့လယ်ရှိ ကျောင်း ဒါယကာကြီး ဦးလန်း၏ တိုက်သစ်စံကျောင်းတော်မှာပင် မုံရွာမြို့လယ်တီကျောင်းဆရာတော် ဦးဉာဏောဘာသ၊ ကျိုက်ထိုမြို့ ဘုရားသုံးကျောင်းဆရာတော်ဦးနန္ဒမာလာ[*၁]၊ မန္တလေးမြို့ မစိုးရိမ်တိုက်သစ်ဆရာတော် ဦးသူရိယ၊ စစ်ကိုင်းတောင်ရိုး ဇမ္ဗုပတိချောင်ဆရာတော်ဦးပဒုမ၊ ရန်ကုန်ချောင်ဆရာတော် ဦးဓမ္မစာရီ၊ မုံရွာမြို့ လယ်တီတိုက်ဓမ္မကထိကဦးဝဏ္ဏိတ၊ ပဲခူးမြို့ ဦးပညောဘာသ၊ သေကျွဲတောင်ဆရာတော်ဦးတိလောက၊ ညောင်လေးပင်မြို့ဦးသုမန၊ ကျိုက်ထို မြို့ဦးဇဝန၊ ပျဉ်းမနားမြို့ဦးဥတ္တရ၊ မုံရွာမြို့ဦးခေမိန္ဒ၊ မုံရွာမြို့ ဦးသုမင်္ဂလ[*၂]၊ ကနောင်မြို့ဦးဣန္ဒက၊ ပျဉ်းမနားမြို့ဦးဥ ယျ၊ ရွှေမြို့ ဦးကုသလ စသည့်တပည့်ရဟန်းတော်များ၊ ပျဉ်းမနားမြို့ပေါ်က ကျောင်းဒါယကာကြီးဦးလန်း၊ ဦးသာဦး၊ ဦးထွန်းလှိုင်၊ ဦးမင်းဒင်၊ ဦးကျော်ခေါင်၊ ဦးသာထွန်းအောင်၊ ဦးလူကလေး၊ ဦးပု၊ ဦးပျော့၊ ဦးအုန်းနှင့် ဦးဘိုးသက်၊ မန္တလေးမြို့မှ ဦးဘိုးရင်၊ ဦးကျော်ရန်၊ ဆရာသိန်း၊ စစ်ကိုင်းမြို့မှ ဦးစံမင်း၊ ဦးဘိုးထွန်းနှင့်ဦးဘော၊ မိတ္ထီလာမြို့မှ ဦးဘိုးမင်း–စသည့် လူဒါကာ,တပည့်ကြီးများ စုံညီစုဝေးကြ၍ ဆရာတော်ဘုရားကြီး၏အန္တိမရှာပနကိစ္စအဝဝကို တိုင်ပင်ဆွေးနွေးခဲ့ကြပါသည်။ အစည်းအဝေး၌သဘာပတိအဖြစ် သေကျွဲတောင်ဆရာတော် ဦးတိလောကမထေရ်က ဆောင်ရွက်တော်မူပါသည်။

ဤအစည်းအဝေးတွင် ပျဉ်းမနားမြို့ လယ်တီစံကျောင်းဆရာတော်ဦးဥ ယျနှင့် ကျောင်း ဒါယကာကြီးဦးလန်း၊ ဦးထွန်းလှိုင်စသော ကိုယ်စားလှယ်အပေါင်းတို့က ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို ပျဉ်းမနားမြို့တွင် ယခုအခါမှစ၍ သက္ကရာဇ် ၁၂၈၅–ခုနှစ်၊ ပထမ ဝါဆိုလဆုတ် ၇–ရက် (အေဒီ ၄၊ ဇူလိုင်လ၊ ၁၉၂၃–ခုနှစ်)ထိ ခုနစ်ရက်တိုင်တိုင် သာဓုကီဠန သဘင်ဆင်ယင်ကျင်းပပူဇော်ပွဲအမျိုးမျိုးပြုလုပ်၍ပူဇော်ကြမည်၊ ဤသို့ပူဇော်ကြပြီးနောက် သက္ကရာဇ် ၁၂၈၅–ခုနှစ်၊ ပထမဝါဆိုလဆုတ် ၇–ရက် (အေဒီ ၄၊ ဇူလိုင်လ၊ ၁၉၂၃–ခုနှစ်) ည(၉)နာရီတွင် မိမိတို့၏စရိတ်ဖြင့်ပင် အထူးမီးရထားကြီးဖြင့် မုံရွာမြို့သို့အရောက် ပို့ဆောင်ပေးကြမည်ဟု ကတိထားပြောဆိုကြပါသည်။

ဤသို့ဆရာတော်ဘုရားကြီး၏ရုပ်ကလာပ်တော်ကို ပျဉ်းမနားမြို့၌ဦးစွာပူဇော်ပြီး မုံရွာမြို့ရှိ လယ်တီကျောင်းတိုက်သို့ တစ်ဖန်ပူဇော်ရန်ပင့်ဆောင်ခွင့်ပြုကြသည့်အတွက် ကြွရောက်လာ

---

*၁ ဝိသုဒ္ဓိမဂ်မြန်မာပြန်ကျမ်းပြုဆရာတော်ကိုဆိုလိုသည်။

*၂ လယ်တီဆရာတော်ဘုရားကြီး၏ တူတော်ဖြစ်ပါသည်။

ကြသော ရဟန်းရှင်လူတို့က ဝမ်းမြောက်ဝမ်းသာ သာဓုခေါ်ကြသည်။ ထို့ပြီးနောက် အမြို့မြို့ အနယ်နယ်တို့မှ ရဟန်းရှင်လူပရိသတ်အပေါင်းတို့က ပျဉ်းမနားမြို့နေလူကြီးလူကောင်းအပေါင်း တို့အား 'ယခုကဲ့သို့ ကျေးဇူးတော်ရှင်ဆရာတော်ဘုရား၏ နောက်ဆုံးအချိန်၌ အလွန်အကဲအထူး စောင့်ရှောက်ပြုစုကြသည့်အတွက် မြန်မာတစ်ပြည်လုံးက ဆရာတော်ကြီး၏ တပည့်အပေါင်း တို့က တစ်သက်တာကာလပတ်လုံး မေ့လျော့နိုင်မည်မဟုတ်ကြောင်းနှင့် ကျေးဇူးအထူးတင်ရှိ ပါကြောင်း' စသည်တို့ကိုပြောဆိုခဲ့ကြပါသည်။*၁

**မုံရွာမြို့ဈာပနအစည်းအဝေး**

ပျဉ်းမနားမြို့၌ ကျင်းပသော ထိုအန္တိမဈာပနအစည်းအဝေးကျင်းပပြီးသည်နှင့် မုံရွာမြို့ လယ်တီတောရကျောင်းတိုက်ဆရာတော်ဦးဉာဏောဘာသသည် ချက်ချင်းပင် မုံရွာမြို့သို့ပြန်လည် ကြွမြန်းတော်မူခဲ့ပြီး မုံရွာမြို့ရှိ သံဃာတော်များနှင့် လူပရိသတ်တို့အား ပျဉ်းမနားမြို့တွင်ကျင်းပ ခဲ့သောအစည်းအဝေးအကြောင်းကို ပြန်လည်မိန့်ကြားတော်မူပါသည်။

ထို့နောက်သက္ကရာဇ် ၁၂၈၅–ခုနှစ်၊ ပထမဝါဆိုလဆုတ် ၄–ရက် (အေဒီ ၁၊ ဇူလိုင်လ၊ ၁၉၂၃– ခုနှစ်)နေ့တွင် မုံရွာမြို့ ကမ်းနားလမ်းရှိ အမိန့်တော်ရဦးစံလင်း၏နေအိမ်၌ လယ်တီဆရာတော် ဘုရားကြီး၏ဈာပနကော်မတီအစည်းအဝေးတစ်ရပ်ကို ကျင်းပခဲ့ကြပြန်ပါသည်။ ထိုအစည်းအဝေး၌ အောက်ဖော်ပြပါလူကြီးများပါဝင်ကြသော အန္တိမပူဇာဈာပနကော်မတီကိုလည်းဖွဲ့စည်းခဲ့ကြပါသည်။

ဥက္ကဋ္ဌဦးစံလင်း၊ ဒုတိယဥက္ကဋ္ဌစက်သူဌေး–(၁) ဦးဘနှင့် (၂) ဆရာသဲကြီး၊ အတွင်းရေးမှူး များမှာ (၁) ဘဏ်တိုက်မန်နေဂျာဦးမြစ်၊ (၂) အမိန့်တော်ရဦးအောင်ဘော၊ (၃) ပိုးကုန်သည်ကြီး ဦးတင်နှင့် (၄) မောင်ဘသွင်–တို့ဖြစ်ကြသည်။ ငွေထိန်းလူကြီးမှာ ကျောင်းဒကာဦးလူနီ၊ ငွေစာရင်းကိုင်လူကြီးများမှာ (၁) ဦးမောင်မောင်နှင့် (၂) ဦးဘိုးတုပ်၊ စာရင်းစစ်လူကြီးမှာ ဦးဘိုးဟံ– တို့ ပါဝင်ခဲ့ကြပါသည်။

အစည်းအဝေးတွင် ရှေးဦးစွာ လယ်တီဆရာတော်ဘုရားကြီး၏အန္တိမဈာပနပူဇော်ပွဲအတွက် အလှူငွေကောက်ခံရန်လိုအပ်ကြောင်းကိုတင်ပြရာ ကောက်ခံရန်အများကသဘောတူညီကြပါသည်။ ဤသို့အလှူငွေကောက်ခံကြသည်ကို အထက်အောက်မြန်မာနိုင်ငံအတွင်းရှိ အများပြည်သူတို့ သိရှိကြပြီး မည်သူမဆို ပါဝင်လှူဒါန်းထည့်ဝင်နိုင်ကြစေရန် မြန်မာသတင်းစာများနှင့်အင်္ဂလိပ် ဘာသာထုတ် နယူးဘားမားသတင်းစာတို့တွင်လည်း အလှူခံကြောင်းကြော်ငြာစာများထည့်သွင်း ရန်ဆုံးဖြတ်ခဲ့ကြပါသည်။

လယ်တီဆရာတော်ဘုရားကြီး၏ရုပ်ကလာပ်တော်ကို မည်သည့်နည်းဖြင့် သဂြိုဟ်မည့်အရေး ကိစ္စကိုဆက်လက်ဆွေးနွေးကြရာတွင် လယ်တီကျောင်းဒကာဦးစံထူးက ယခုအစည်းအဝေး၌ မဆုံးဖြတ်သေးပဲ၊ တပည့်ရှင်လူပရိသတ်စုံညီသော အထူးအစည်းအဝေးတစ်ရပ်ပြုလုပ်ပြီးမှသာ

*၁ လယ်တီဆရာတော်ဘုရားကြီးပြန်လွန်တော်မူသောကိစ္စ သာဓုကီဠနသဘင်အတွက် နိုင်ငံလုံးဆိုင်ရာအစည်းအဝေးကြီး က ဆုံးဖြတ်စဉ်းစားပြဋ္ဌာန်းချက်အရပ်ရပ်များ။ (စာမျက်နှာ ၁၈–၂၀)

အများသဘောတူတိုင်ပင်ဆုံးဖြတ်ကြရန်ဖြစ်သည့်အတွက် ဤကိစ္စကို ယခုအခါ၌ခေတ္တဆိုင်းငံ့ထားသင့်ကြောင်း အကြံပေးတင်ပြပါသည်။

ထို့ပြင်လယ်တီဆရာတော်ဘုရားကြီး၏ရုပ်ပုံတော်ကို ကျောက်ဖြင့်ဖြစ်စေ၊ အခြားသတ္တုတစ်မျိုးဖြင့်ဖြစ်စေ အပူဇော်ခံပြုလုပ်ထားရှိရန်နှင့် ဆရာတော်ဘုရားကြီးစီရင်ရေးသားတော်မူခဲ့သော ဒီပနီကျမ်းစာများကိုလည်း ကျောက်ထက်အက္ခရာတင်ထားရန်ကို ဆုံးဖြတ်ခဲ့ကြပါသည်။ ဆရာတော်ဘုရားကြီး၏ရုပ်တုတော်နှင့် ဒီပနီကျမ်းစာများကျောက်စာတော်တို့ကိုပြုလုပ်ရာ၌ ကုန်ကျစရိတ်ကို မုံရွာမြို့ ဗုဒ္ဓဘာသာသာသနာပြုအသင်း၊ ရွှေတောင်မြို့ဗုဒ္ဓဘာသာသာသနာပြုအသင်းနှင့် ညောင်တုန်းမြို့ ဗုဒ္ဓဘာသာသာသနာပြုအသင်းတို့၌ သီးသန့်ထားရှိသောငွေများဖြင့် မတည်၍ပြုလုပ်ရန် သဘောတူညီခဲ့ကြပါသည်။

ဤသို့ကျေးဇူးရှင်ဆရာတော်ဘုရားကြီး၏အနုဿ မပူဇာသာစုကြီးဥနစျာပနသဘင်ပွဲ ဆင်ယင်ကျင်းပကြရာ၌ အရာရာကိုဩဝါဒပေးညွှန်ကြားတော်မူရန် သေကျွတောင်ဆရာတော်အား ဩဝါဒါစရိယအဖြစ်ထားရှိကြပြီးလျှင် ဆရာတော်ကိုလည်း 'မုံရွာမြို့ လယ်တီတောရကျောင်းမှာပင် သီတင်းသုံးနေတော်မူပါရန်' လျှောက်ထားကြရာ သေကျွတောင်ဆရာတော်ကလည်း လက်ခံတော်မူခဲ့ပါသည်။ ဆရာတော်ဘုရားကြီး၏ ရုပ်တုတော်ပြုလုပ်ခြင်းနှင့် ဒီပနီကျမ်းစာများကျောက်စာထုလုပ်ခြင်းလုပ်ငန်းတို့ကို မန္တလေးတောင်ရသေ့ကိုယ်တော်ကြီး ဦးခန္တီအားအကူအညီတောင်းခံရန် အများက သဘောတူညီကြပါသည်။

မုံရွာမြို့၊ ကမ်းနားလမ်းရှိ အမိန့်တော်ရဦးစံလင်း၏နေအိမ်ကို လယ်တီဆရာတော်ဘုရားကြီး၏ အနုဿ မစျာပနကော်မတီရုံးအဖြစ်ထားရှိရန်ရွေးချယ်ကြရာ ဦးစံလင်းကလည်းသဘောတူသဖြင့် အားလုံးက သာဓုခေါ်ကြပြီး အစည်းအဝေးကိုရုပ်သိမ်းခဲ့ကြပါသည်။*၁

**ပျဉ်းမနားမြို့ နိဗ္ဗာန်ကျောင်းချအခမ်းအနား**

ပျဉ်းမနားမြို့နေတပည့် ဒါယကာဒါယိကာမအပေါင်းတို့သည် လယ်တီဆရာတော်ဘုရားကြီး၏ရုပ်ကလာပ်တော်ကို မိမိတို့မြို့၌ ရက်သတ္တတစ်ပတ်မျှအပူဇော်ခံထားရှိစဉ်ကာလအတွင်း မြို့တွင်း၌ လှည့်လည်ပူဇော်ရန်နှင့် နိဗ္ဗာန်စံကျောင်းချအခမ်းအနားများပြုလုပ်ကြရန် အစီအစဉ်များပြုလုပ်ခဲ့ကြပါသည်။

ထိုအခမ်းအနားများတွင် မြတ်စွာဘုရားရှင် ကုသိနာရုံဝယ် မဟာပရိနိဗ္ဗာန်စံဝင်တော်မူစဉ်အခါက ကိုယ်တော်မြတ်၏အပေါ်၌ စိန်,ပုလဲ,ကျောက်သန္တာစသည့် ရတနာအတိပြီးသော မဟာလတာတန်ဆာကိုလွှမ်း၍ပင့်ဆောင်ကြသကဲ့သို့ လယ်တီဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်အပေါ်မှာလည်း စိန်,ပုလဲ,ကျောက်သန္တာစသည့် ရတနာအတိပြီးသောမဟာလတာတန်ဆာကဲ့သို့ ရတနာအတိစီချယ်ထားသောအဝတ်ကမ္ဗလာအလွှာကိုဖုံးလွှမ်း၍ ပင့်ဆောင်ပူဇော်ကြရန် စီမံခဲ့ကြပါသည်။ သို့ဖြစ်၍ လယ်တီဆရာတော်ဘုရားကြီးတပည့်ရင်း ပျဉ်းမနားမြို့၊ ပန်းထိမ်

*၁ ယင်း။ (စာမျက်နှာ ၂၁-၂၈)



လယ်တီဆရာတော်ကြီး၏ရုပ်ကလာပ်တော်အား လယ်တီစံကျောင်းသို့ပင့်ဆောင်လာကြစဉ်

ဆရာကြီး ဦးဘထုံးက တာဝန်ယူ၍ ပျဉ်းမနားတစ်မြို့လုံးရှိ စိန်ထည်၊ ပုလဲ,ကျောက်သန္တာနှင့် ပတ္တမြားထည်များကို စုဆောင်းခဲ့ပါသည်။ ထိုရတနာထည်များကို စာရင်းနှင့်တကွမှတ်သားပြီး ဆရာတော်ဘုရားကြီးရုပ်ကလာပ်တော်အားလွှမ်းခြုံမည့် ကတ္တီပါကမ္ဗလာတွင်တပ်ဆင်ရန်အတွက် စီမံပေးရသည်။ ပြီးလျှင် ကုမ္မာရီအသင်းသူများက စိန်ကတ္တီပါနက်ပြာစပေါ်တွင် ရတနာထည်များကို အပ်နှင့်ချုပ်၍တပ်ဆင်ကြပါသည်။ ထိုစိန်ကျောက်စသည်ရတနာအတိပြီးသော စိန်ကတ္တီပါနက်ပြာစကို ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ပေါ်၌ လွှမ်းခြုံပူဇော်ထားရှိပါသည်။*၁

ထို့ပြီးနောက် လယ်တီဆရာတော်ကြီး၏ရုပ်ကလာပ်တော်ကို ဦးလန်း၏တိုက်သစ်စံကျောင်းတော်ပေါ်မှ ရုပ်ကလာပ်တော်ပင့်ဆောင်ရန် အထူးစီမံချယ်သထားသော ဦးလန်း၏ဗျူ့ကားကြီးပေါ်သို့ရွှေ့ပြောင်းပင့်ဆောင်ကြပါသည်။ ထိုသို့ရုပ်ကလာပ်တော်တင်ဆောင်လာသောကားကြီးကို ဦးလန်းတိုက်သစ်စံကျောင်းတည်ရာ တပ်ကားလမ်းမှ ပျဉ်းမနားမြို့ ကုန်သည်လမ်းတစ်လျှောက် လယ်တီစံကျောင်းသို့ရောက်ရှိသည့်တိုင်အောင် လှည့်လည်ပင့်ဆောင်လာကြရာ လမ်းတစ်လျှောက် နိဗ္ဗာန်ကျောင်းချဂါထာစသည်တို့ကိုလည်း သီဆိုကျူးရင့်ကြပါသည်။*၂

လယ်တီဆရာတော်ဘုရားကြီးရုပ်အလောင်းတော်ကို ဦးလန်း ဒေါ်မမလေးတို့၏တိုက်သစ်စံကျောင်းတော်မှ ပျဉ်းမနားမြို့ ငွေတောင်ထိပ်လယ်တီစံကျောင်းရှိ နိဗ္ဗာန်ကျောင်းတော်သို့ဆောင်ယူသောလမ်းစခန်းဝယ် တညီတညာတည်း သံပြိုင်ရွတ်ဆိုကြရန် ဇမ္ဗူပတိချောင်ဆရာတော် ဦးပဒုမနှင့် လယ်တီပဏ္ဍိတတို့ ရေးဖွဲ့ခဲ့သော နိဗ္ဗာန်ကျောင်းချဂါထာတို့မှာ အောက်ပါအတိုင်း ဖြစ်သည်။

၁။ မရဏံ ဝိယောဂံ လယ်တီ၊ တေရော ဂုဏ ဂဏာန္တရီ။
ဩဟာယ သိဿကေ ဂဍ္ဍိ၊ ကာလေ တာရာ ယထာ သသီ။ ။

သသီ–ရောင်ဝါတင့်ရွှန်း ငွေလဝန်းကြီးသည်၊ ကာလေ–လ,ဆုတ်ပက္ခ ခါသမယ၌၊ တာရာ–များစွာသိန်းသောင်း ကြယ်တာရာအပေါင်းတို့ကို၊ ဩဟာယ–စွန့်ပယ်သောအား ပစ်ခွာထားခဲ့၍၊ ဂဍ္ဍိယထာ–ရောင်ဝါကင်းပျောက် ကွယ်ခြင်းသို့ ရောက်သကဲ့သို့ တထာ–ထိုတိမ်မြုပ်ကွယ်ကင်း ငွေလမင်းနှင့် မယွင်းပုံယူ အလားတူသာလျှင်၊ ဂုဏဂဏာန္တရီ–ကျေးဇူးတော်ဂုဏ် အဖုံဖုံကို ဥဿုံခပင်း သက်ပါနင်း၍ ဆောင်ကြဉ်းတော်မူပေထသော၊ လယ်တီထေရော–ကျေးဇူးတော်ရှင် လယ်တီဆရာတော်မြတ်ကြီးသည်၊ သိဿကေ–များစွာသိန်းသန်း ရဟန်းရှင်လူ မျိုးတူမျိုးခြားတပည့်များစွာတို့ကို၊ ဩဟာယ–မနေသာဘဲ ဖယ်လွှဲစွန့်ပစ်တော်မူ၍၊ ဝိယောဂံ–အမြောက်ပုံးနှင့် အနှုန်းတူစွာ ဘုံသုံးမြွာကို မကြာချက်ချင်း ပစ်ဖောက်ခွင်းတတ်သော၊ မရဏံ–သုံးဆယ်တစ်ဘုံ အလုံးစုံကို အကုန်ချေမှုန်း တက်တက်ပြုန်းအောင် အဆုံး

*၁ ပျဉ်းမနားမြို့ စိန်ရွှေရတနာကုန်သည်ကြီးဦးသွင်၏ (၁၄–၄–၁၉၈၄)နေ့ ပြောကြားချက်များဖြစ်သည်။ ဦးသွင်မှာ ပန်းထိမ်ဆရာကြီးဦးဘထုံးနှင့် ဒေါ်လှမယ်တို့၏ သားဖြစ်သည်။

*၂ ပျဉ်းမနားမြို့ နတ်တော်စဉ်ဆရာတော်အရှင်ရေဝတမဟာထေရ်၏ မိန့်ကြားချက်ဖြစ်သည်။

စီရင် စက်ရှင်သေမင်း သူ့လက်တွင်းသို့ ဂစ္ဆိ–မဖယ်သာမလွှဲသာ ကြွရှာတော်မူလေပြီ တကား။ ။

၂။ ယထာပိ ဒေဝေ ဝဿန္တေ၊ ဝုဋ္ဌိယော ယန္တိ သာဂရံ။
ဧဝံ ဓုဝံ ဝနောယာမ၊ သဗ္ဗေပိ မစ္စုသန္တိကံ။ ။

ဒေဝေ–တိမ်ပန်းလျှပ်နွယ် ပြက်သန့်ချယ်လျက် လေးသွယ်ရစ်ဝိုက် မိုးတိမ်တိုက်သည်၊ ဝဿန္တေ–အရည်ထန်စွာ ရွာသွန်းသည်ရှိသော်၊ ဝုဋ္ဌိယော–အသချော်ချော များလှပေသည့် မိုးရေမိုးပေါက်တို့သည်၊ သာဂရံ–သမုဒ်လေးသွယ် ပင်လယ်ဗလဝ ဝဲသြဃသို့၊ ယန္တိ ယထာပိ–တစ်ပေါက်တစ်စက် ဆန်မတက်ဘဲ သက်သက်မြောစုန် သက်ဆင်းလေကုန်သကဲ့သို့၊ ဧဝံတထာ–ထို့အတူသာလျှင်၊ သဗ္ဗေ– တစ်ယောက် မကြွင်း ခပင်းဥသုံ အလုံးစုံကုန်သော၊ နော–ကြီးကြီးငယ်ငယ် ရွယ်ရွယ်စားစား များပြားလှစွာ တို့–သူ–ငါတို့သည်၊ ဓုဝံ–မချွတ်မလွဲ အမြဲကေန် အမှန်သာလျှင်၊ မစ္စုသန္တိကံ–သုံးဆယ့်တစ်ဘုံ အလုံးစုံကို အကုန်ချေနင်း စက်ကြိုးသွင်းသည့် သေမင်း ထံမှောက် သူ့လက်အောက်သို့၊ ယာမ–အချိန်စေ့က သေနေ့ကျလျှင် လောကဂုဏ် ထွေ အကုန်ကျေလျက် မသွေသာမဝိုက်သာ လိုက်ပါသက်ဆင်းကြရကုန်တော့ အံ့သတည်း။ ။

၃။ ကရောန္တောဝ သကိစ္စာနိ၊ သာသနောဒယ သံဟိတေ။
တိမရဏံ အနတိက္ကန္တော၊ ဟိတွာ တာနိ ဝယံ ဂမီ။ ။

သသောထေရော– ထိုကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီးသည်၊ သာသနောဒယ သံဟိတေ– ဗုဒ္ဓမြတ်စွာ သာသနာ၏ ရောင်ဝါနေဝန်း ထိန်ထိန်ရွှန်း လျက် တက်ထွန်းစိမ့်ငှာ သာသနာရေးနှင့်စပ်လျဉ်းကုန်သော၊ ကိစ္စာနိ–ပြုဖွယ်ကိစ္စ အဝဝတို့ကို၊ ကရောန္တောယေဝ–ပြုတော်မူဆဲ အားထုတ်ဆဲသာလျှင်၊ မရဏံ– တောင်ကြီးပမာ မရှောင်သာသည့် ဖီလာတားဆီး သေခြင်းတရားကြီးကို၊ အနတိက္ကန္တော–ခုန်ကျော်တက်ပြန် မလွှန်ဆန်နိုင်သည်ဖြစ်၍၊ တာနိကိစ္စာနိ–ထိုသာ သနာရေးကြီး အသီးသီးသောကိစ္စတို့ကို၊ ဟိတွာ– လက်စသိမ်းရုံး ပြီးဆုံးစေငှာ မတတ်သာဘဲ ပယ်ခွာရှောင်ရှား လက်စတွေထားခဲ့၍၊ ဝယံ–ဆုံးပါးကျေပျောက် သေမင်းနောက်သို့၊ ဂမီ–မဖယ်သာမလွှဲသာ ကြွရှာတော်မူလေပြီ။ ။

၄။ ဧဝံ နော ကရဏီယာနိ၊ ကရောန္တာ ဂိဟိဋ္ဌာနိယေ။
မရဏံ အနတိက္ကန္တာ၊ တာနိ ဟိတွာ ယမာမသေ။ ။

ဧဝံတထာ–ကိစ္စမပြီး တင်းလင်းကြီးနှင့် ပျက်စီးတော်မူ ထေရ်ဘုန်းလူနှင့် အင်တူမခြား တသားတည်းသာလျှင်၊ နော–ကြီးကြီးငယ်ငယ် ရွယ်ရွယ်စားစား အများသတ္တဝါ တို့သူငါတို့သည်၊ ဂိဟိဋ္ဌာနိယေ–လူရေးလူရာ များလှစွာကုန်သော၊

ကရဏီယာနိ–လုပ်ငန်းဆောင်တာ ပြုရာသီးသီး အလုပ်ကြီးတို့ကို၊ ကရောန္တာ ကရောန္တာ ယေဝ–ပြုဆဲပြင်ဆဲ အားထုတ်ကြကုန်ဆဲသာလျှင်၊ မရဏံ–တောင်ကြီးပမာ မရှောင်သာသည့် ဗီလာဆီးတား သေခြင်းတရားကို၊ အနတိက္ကန္တာ–ခုန်ကျော်တက်ပြန် မလွန်ဆန်နိုင်ကြကုန်သည်ဖြစ်၍၊ တာနိ–ထိုလုပ်ငန်းဆောင်တာ ပြုရာသီးသီး အလုပ်ကြီးတို့ကို၊ ဟိတွာ–လက်စသိမ်းရုံး ပြီးဆုံးစေဘဲ မတတ်သာဘဲ ပယ်ခွာ ရှောင်ရှား လက်စတွေထားခဲ့ကြကုန်၍၊ ယမာမသေ–ဆုံးပါးကြေပျောက် သေမင်းနောက်သို့ ကောက်ကောက်မကွာ ထက်ချပ်သာလျှင် လိုက်ပါသေဆုံးကြရကုန်တော့အံ့သတည်း။ ။

၅။ ထေရော သော ဓမ္မကထညူ၊ နိကာယဏ္ဍဝ ပါရဂူ။
ဂတော မစ္စုဝသံ ဇန္တု၊ ဂမ္မာမေဝံ မယံ မုဒ္ဓ။ ။

ဓမ္မကထညူ–နက်နဲလှစွာ ဘိဓမ္မာကို သေချာထုတ်ဖော် သရုပ်ပေါ်အောင် ဟောတော်မူနည်း နိသျည်းကို သိပ်သည်းသေချွေ သိကျွမ်းတော်မူပေထသော၊ နိကာယဏ္ဍဝပါရဂူ–နိကာယ်ငါးစုံ ကျမ်းသုံးပုံကို အကုန်တတ်မြောက် တစ်ဖက်ကမ်းရောက်တော်မူပေထသော၊ သောထေရော– ထိုကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးသည်၊ မစ္စုဝသံ–သုံးဆယ့်တစ်ဘုံ အလုံးစုံကို အကုန်ကြိတ်ဝါး အစိမ်းစားသည့် ဆိုးဝါးရန့်ရင်း သေရင်းရပ်ထံ သူ့နိုင်ငံသို့၊ ဂတောယထာ–မကွာစိုက်စိုက် မဝိုက်သာမသွေသာ လိုက်ပါတော်မူရသကဲ့သို့၊ ဧဝံတထာ–ထို့အတူသာလျှင်၊ မုဒ္ဓ–သီလ,သမာ ပညာသေးငယ် နုနယ်ကြကုန်သော၊ နောဇန္တု–ကြီးကြီးငယ်ငယ် ရွယ်ရွယ်စားစား အများသတ္တဝါ တို့–သူ–ငါတို့သည်၊ မစ္စုဝသံ–သေမင်းရပ်ထံ သူ့နိုင်ငံသို့ ဂမ္မာ–မကွာစိုက်စိုက် မဝိုက်သာမသွေသာ လိုက်ပါကြရကုန်အံ့သတည်း–ဟူ၍ဖြစ်ပါသည်။*၁

### ပျဉ်းမနား၏ ပူဇော်မှုအလီလီ

ပျဉ်းမနားမြို့ရှိ ရဟန်းရှင်လူပရိသတ်အပေါင်းတို့သည် ကျေးဇူးတော်ရှင်လယ်တီဆရာတော်ဘုရားကြီး၏ရုပ်ကလာပ်တော်ကို အမျိုးမျိုးအဖုံဖုံသောနည်းလမ်းတို့ဖြင့် ပူဇော်ကြရသော်ငြားလည်း ပူဇော်၍မဝ အားမရနိုင်ဖြစ်လာခဲ့ကြသည်။ ထို့ပြင် အနယ်နယ်အရပ်ရပ်မှ လာရောက်ပူဇော်ကြသော ရဟန်းရှင်လူပရိသတ်ကြီးမှာလည်း တိုးမပေါက်အောင်စည်ကားနေပေရာ သက္ကရာဇ် ၁၂၈၅–ခုနှစ်၊ ပထမဝါဆိုလဆုတ် ၈–ရက် (အေဒီ ၄၊ ဇူလိုင်လ၊ ၁၉၂၃–ခုနှစ်)၌ ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်အား မုံရွာမြို့သို့ပင့်ဆောင်ရေးအစီစဉ်ကို အကောင်အထည်ဖော်ရန်ကိစ္စမှာ ပျဉ်းမနားမြို့ ဈာပနကော်မတီလူကြီးများအဖို့ အခက်အခဲတွေ့လျက်ရှိနေကြလေသည်။

*၁ မောင်ရွှေ၏ လယ်တီမဟာထေရုပ္ပတ္တိကထာ။ ၁၂၈၅–ခုနှစ်။ (စာမျက်နှာ ၅၂–၅၆)။

ထို့ပြင် ပျဉ်းမနားဒေသသည် နိုင်ငံတော်အဝန်း၏အလယ်ဗဟိုမှာ တည်ရှိနေသကဲ့သို့ဖြစ်၍ မည်သည့်ရပ်ရွာကမဆို ကုန်းလမ်းအသီးသီးမှ လွယ်လင့်တကူလာရောက်ပြီး ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို ဖူးမြော်ပူဇော်ရန်လွယ်ကူသည်။ အကယ်၍ အထက်မြို့ရွာဖြစ်သော မုံရွာသို့ပင့်ဆောင်သွားပါက သွားရောက်ဖူးမြော်ပူဇော်ကြရန်ခက်ခဲမည်ဖြစ်၍ ရှင်လူပရိသတ်အပေါင်းတို့ကလည်း ဆရာတော်ဘုရားကြီး၏ရုပ်ကလာပ်တော်ကို ပျဉ်းမနားမြို့မှာပင် ရက်တိုးထားရှိ၍ ဆက်လက်အပူဇော်ခံပါရန် အမျိုးမျိုးတောင်းပန်ကြလေသည်။

အထူးအားဖြင့် ကျောင်းဒကာကြီးဦးလန်း၏သား ဦးမြအမှူးရှိသော ပျဉ်းမနားမြို့ခံလူငယ်ပရိသတ်မှာ အင်အားပြည့်စုံပြီး သူတို့သဒ္ဒါတရားကလည်း လွန်စွာထက်သန်လျက်ရှိနေလေရာ ဦးလန်း၊ ဦးထွန်းလှိုင်-စသော လူကြီးပိုင်းကျောင်းဒကာကြီးတို့သည် ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို မုံရွာမြို့သို့ပင့်ဆောင်ရန်ကိစ္စအတွက် ထိုလူငယ်ပရိသတ်အား ဖျောင်းဖျ၍ မရဘဲ ရှိနေခဲ့လေသည်။*၁

**မုံရွာမြို့လုံးကျွတ်အစည်းအဝေးကြီး**

ဤသို့ဆရာတော်ဘုရားကြီးရုပ်ကလာပ်တော်ကို မုံရွာမြို့သို့ပင့်ဆောင်ရန် အခက်အခဲတွေ့နေချိန်တွင် မုံရွာမြို့နေ တပည့်ရှင်လူအပေါင်းတို့ကလည်း သက္ကရာဇ် ၁၂၈၅-ခုနှစ်၊ ဝါခေါင်လဆန်း ၈-ရက် (အေဒီ ၁၉၊ ဩဂုတ်လ၊ ၁၉၂၃-ခုနှစ်)တွင် မုံရွာမြို့လုံးကျွတ် ဈာပနကော်မတီအစည်းအဝေးတစ်ရပ်ကို မုံရွာမြို့လယ်တီကျောင်းတိုက်အတွင်းရှိ ဥဿုံမဏ္ဍပ်ကြီးတွင် ကျင်းပခဲ့ကြပါသည်။

ဤအစည်းအဝေးတွင် မုံရွာမြို့မှသာမက မန္တလေး၊ ရန်ကုန်၊ ပျဉ်းမနား၊ စစ်ကိုင်း စသည့် လယ်တီဆရာတော်ဘုရားကြီး၏ တပည့်ရဟန်းတော်များ၊ လူဒကာကြီးများ စုံညီတက်ရောက်ကြသဖြင့် မြို့လုံးကျွတ်အစည်းအဝေးဟုမဆိုထိုက်ဘဲ နိုင်ငံလုံးဆိုင်ရာအစည်းအဝေးကြီးဟူ၍ပင် ခေါ်ဆို ထိုက်ပေသည်။ ထိုနေ့အစည်းအဝေးတွင် မန္တလေးမြို့ ဓမ္မာရုံစံကျောင်းဆရာတော်ဦးစိန္တာ၊ မန္တလေးမြို့ မစိုးရိမ်တိုက် နာယကဆရာတော်ဦးသောမာဘိသိရီ၊ ဦးသူရိယနှင့်ဦးဉာဏ၊ မန္တလေးမြို့အလ္လကပ္ပတိုက်ဆရာတော်ဦးရေဝတ၊ ဖြူးမြို့သေက္ခတောင်ဦးတိလောက၊ ရန်ကုန်မြို့ ညောင်ကုန်းလယ်တီစံကျောင်းဘုန်းကြီးဦးဝဏ္ဏိတ၊ ပျဉ်းမနားမြို့ လယ်တီနိဗ္ဗာန်စံကျောင်းဘုန်းကြီးဦးဉေယျနှင့်ဦးဥတ္တရ၊ စစ်ကိုင်းတောင်ရိုးမှ ရန်ကုန်ချောင်ဆရာတော်ဦးဓမ္မစာရီနှင့် ဇမ္ဗူပတိချောင်ဆရာတော်ဦးပဒုမ၊ ခင်မွန်ရွာကျောင်းဆရာတော်ဦးဉာဏဝံသ၊ ဆရာတော်ကြီး၏တပည့်ရင်း ခင်မွန်တောရဂိုဏ်းထောက်ဆရာတော်ဦးကေတု၊ အလုံခိုသန်းရွာဆရာတော်ဦးဝိစိတ္တနှင့် ကျောင်းသစ်ဆရာတော်ဦးနာရဒ၊ ကြောင်ပန်းဆရာတော်ဦးက္ကန္တက၊ အထက်ချင်းတွင်း ဘီးဆန်းဆရာတော်ဦးသီရိ၊ ဇန့်ကျိုနယ် ကျေးနင်းရွာ စိန်ဖူးကျောင်းဆရာတော်ဦးဇာဂရ၊ အထက်ချင်းတွင်း ကလေးဝမြို့ ကျောင်းသစ်ဆရာတော်ဦးနေယျ၊ စိုင်ပြင်ရွာဆရာတော်ကြီး၏ညီရင်း ဦးကိတ္တိ၊ မုံရွာမြို့ရွှေစည်းခုံတိုက် ဂိုဏ်းထောက်ဆရာတော်ဦးစန္ဒိမာစသော လယ်တီဆရာတော်ဘုရားကြီး၏

*၁ လယ်တီဦးဝဏ္ဏိတ(ဆရာကြီးဦးလှတင်)၏ ပြောပြချက်ဖြစ်သည်။

သွေးသားရင်းတပည့်ရင်းသံဃာတော်ကြီးများစွာတို့ကြွရောက်တော်မူလာကြပါသည်။ လူပုဂ္ဂိုလ်များဘက်ကလည်း အများအပြားတက်ရောက်ကြရာ ရှင်လူပရိသတ်အစုစုနှစ်ထောင်ကျော်လေသည်။

ဤအစည်းအဝေးကြီးတွင် လယ်တီဆရာတော်ဘုရားကြီး၏ အန္တိမဈာပနကျင်းပရေးကိစ္စများနှင့်စပ်လျဉ်း၍ စုပေါင်းကာ တိုင်ပင်ကြ၊ အဆိုပြုကြ၊ ဆုံးဖြတ်ကြပုံတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

အစည်းအဝေးပထမအစီအစဉ်အရ မုံရွာမြို့ ဦးစံလင်းနေအိမ်၌ သက္ကရာဇ် ၁၂၈၅-ခုနှစ်၊ ပထမဝါဆိုလဆုတ် ၄-ရက် (အေဒီ ၁၊ ဇူလိုင်လ၊ ၁၉၂၃-ခုနှစ်)တွင် ကျင်းပခဲ့သော သာစုကိစ္စန ဈာပနကော်မတီပထမအကြိမ်အစည်းအဝေးမှဆုံးဖြတ်ချက်များကို အမိန့်တော်ရ မင်းတိုင်ပင် အမတ်ဦးကိုကြီးက ဤနိုင်ငံလုံးဆိုင်ရာအစည်းအဝေးကြီးတွင်ဖတ်ကြား၍ အများဆန္ဒကိုယူလျက် ထပ်မံအတည်ပြုကြပါသည်။ ထို့နောက်ဆက်လက်၍ အောက်ပါအချက်အလက်များကို ဆွေးနွေး တိုင်ပင်ခဲ့ကြပါသည်။

ဤသို့ဆွေးနွေးကြရာတွင် ပျဉ်းမနားမြို့သူမြို့သားဒါယကာကြီးငယ်တို့ ကုသိုလ်အထူး ပွားလူးဖြစ်ထွန်းစေခြင်းငှာ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် ပျဉ်းမနားမြို့သို့ သက်တော်ထင်ရှားရှိတော်မူစဉ်ကြွရောက်သီတင်းသုံးနေတော်မူခဲ့ပြီး ထိုမြို့သူမြို့သားတို့၏ စောင့်ရှောက်ပြုစုလုပ်ကျွေးခြင်းကိုခံတော်မူလျက် ခန္ဓာဝန်ကိုပြစ်ချ ဤဘဝမှလွန်တော်မူခဲ့ရာ ကြွင်းကျန်ရစ်သောဥတုဇရုပ်ကလာပ်တော်ကို ပျဉ်းမနားမြို့သူမြို့သားတို့မှာ ခုနစ်ရက်မျှ ဆက်လက် ကာ အားရအောင် ပူဇော်ဖွယ်အထူးတို့ဖြင့်ပူဇော်ကြပြီးလျှင် ကြည်နူးကျေနပ်စွာ အမြဲသီတင်း သုံးတော်မူ၍ သာသနာတော်၏အခြေအမြစ်ကို စိုက်ပျိုးပြုစုရာဋ္ဌာနဖြစ်သော မုံရွာမြို့ လယ်တီ တိုက်သို့ပင့်ဆောင်သင်္ဂြိုဟ်စိမ့်သောငှာ ခွင့်ပြုပေးအပ်ရန်ဆုံးဖြတ်ကြပြီးမှ တင်းတိမ်ရောင့်ရဲခြင်း မရှိကြသေးသည်ဖြစ်၍ ဆက်လက်ပူဇော်လိုကြသော နှလုံးကောင်းများကို ဖော်ပြကြပေသည်။ သို့ပင်ဖော်ပြသော်လည်း ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး သက်တော်ထင်ရှားရှိတော် မူစဉ်က ခွင့်ပြုတော်မူချက်အရ နဝရတ်ကိုးပါးချယ်စီမံပြီး ရုပ်လုံးပေါ်ဖာတ်စုံခင်း၍ပြုလုပ်ထားသော မှန်စီရွှေချခေါင်း၊ ရွှေအပြည့်မွမ်းမံထားသော အလောင်းတော်ထားရန် မြေနှင့်အတောင်(၂၀) ဘုံခုနစ်ဆင့်၊ အမြင့်အတောင်(၄၀)ရှိ ရွှေအုတ်ပြာသာဒ်တော်၊ အလျားကိုးခန်း၊ အနံလေးခန်းရှိ အတွင်းအပြင် ရွှေအပြည့်ချအုတ်တိုက်နိဗ္ဗာန်စံကျောင်းတော်ကြီး-စသော အဖိုးတစ်သိန်းခန့်တန် သင်္ဂြိုဟ်ခြင်းကိစ္စအတွက် ဆရာတော်ဘုရားကြီးသက်တော်ထင်ရှားရှိစဉ်ကပင် ကိုယ်တော်တိုင် ရေစက်သွန်းချအလှူခံယူပြီး အခမ်းအနားကိုအသင့်အပြည့်အစုံရှိနေပြီဖြစ်သည်။[*၁] ထို့ပြင် ဆရာတော်ဘုရားကြီးက 'ငါ၏အလောင်းတော်ကို အဂ္ဂိဈာပနမပြုကြဘဲ ဤအုတ်ပြာသာဒ်အတွင်း၌ သွင်း၍ မှန်တံခါးဖြင့်ပိတ်ထားပူဇော်ကြရမည်' ဟူသော အမိန့်တော်မြွက်ကြီးကိုလည်း ထားရစ်တော် မူသောကြောင့် ထိုအမိန့်တော်မြွက်ကို တော်လှန်ငြင်းဆန်ခြင်းငှာမဝံ့ ကျောက်ထီးကဲ့သို့ အလေးပြု လျက် ရှိသေစွာနာခံကြရန် တိုင်ပင်ကြပါသည်။

---

*၁ မုံရွာမြို့ လယ်တီတောရကျောင်းဒါယကာကြီးဦးကြွယ်၏ ကောင်းမှုများဖြစ်သည်။



လယ်တီဆရာတော်ကြီး၏ညီတော်ရင်း
ဘုန်းတော်ကြီးဦးကိတ္တိ

ကျေးဇူးရှင်
**လယ်တီဆရာတော်ဘုရားကြီး**
၏
ဘွားရာ ဇာတိမှစ၍၊ ပြန့်လွှင့်တော် မူသည့်
တိုင် အောင်– ဖြစ်ဖြစ်သမျှသော
အကြောင်းအရာများကို၊
အကျဉ်းချုပ်အားဖြင့်
ရေးသား ဖော် ပြ အပ်သော
**လယ်တီမဟာ·ထေရုပ္ပတ္တိကထာ။**
စီစဉ်ရေးသားသူ၊
"အယ်ဒီတာ–မောင်ရွှေ"
ပညာအလင်းသတင်းစာတိုက်
နံပါတ်၅၆–၅၀–သမ်း၊ရန်ကုန်မြို့။
၁၂၈၅–ခု၊ ဒုတိယဝါဆိုလအတွင်း
ပုံနှိပ်သည်။

လယ်တီဆရာတော်ကြီး၏ရှာပနပွဲတွင်ရိုက်နှိပ်ဝေငှသော
ထေရုပ္ပတ္တိကထာစာအုပ်



ဆရာတော်ကြီး၏ရုပ်ကလာပ်တော်ကိုလွှမ်းခြုံသည့်
ရတနာစီခြယ်သောအထည်ကိုပြုလုပ်ပေးသူ ဒကာဦးဘထုံး

ဆုံးဖြတ်ချက်–၁။ သို့ဖြစ်၍ ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို မည်သည့်အရပ်၌အပူဇော်ခံထားကာ ပူဇော်ကြသည်ဖြစ်စေ နောက်ဆုံးတွင် ဤမုံရွာမြို့၌သာလျှင် ပြာသာဒ်သွင်း၍အဆုံးသတ်သင်္ဂြိုဟ်ပူဇော်ရန် အသင့်လျော်ဆုံးဖြစ်ဟု မြော်မြင်နှလုံးသွင်းပိုက်မိသောကြောင့် အလောင်းတော်ကိုမုံရွာမြို့သို့ ပင့်ဆောင်အဆုံးသတ် ပြာသာဒ်အတွင်းသွင်းထားသင်္ဂြိုဟ်ရန်သင့်ကြောင်း ဆုံးဖြတ်ပြဋ္ဌာန်းကြသည်။

ထို့နောက် ကျေးဖူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်သည် မုံရွာမြို့၌သာ အဆုံးစွန်သင်္ဂြိုဟ်ခြင်းကိစ္စပူဇော်အထူးကို ခံယူထိုက်သည်ဟု ဤနိုင်ငံလုံးဆိုင်ရာ တပည့်ကြီးငယ်တို့၏ အစည်းအဝေးကြီးက ဆုံးဖြတ်ပြဋ္ဌာန်းသည့်အတိုင်း မုံရွာမြို့က ကျေးဖူးရှင်လယ်တီဆရာတော်ဘုရားကြီးသက်တော်ထင်ရှားရှိစဉ် ဆောက်လုပ်စီမံထားပြီး တစ်သိန်းခန့်တန်အဆောက်အအုံနှင့် ပူဇော်ဖွယ်အထူးထူးတို့ကို သင်္ဂြိုဟ်ခြင်းကိစ္စစီမံဆောင်ရွက်ရန်အတွက် စရိတ်ငွေသက်သက် ကျပ် ၄၀၀၀၀ ကောက်ခံစီမံထားရှိစေရန် အမိန့်တော်ရမင်းဦးဘိုးထွန်း၊ မင်းတိုင်ပင်အမတ် ဦးကိုကြီးတို့က ဝန်ခံချက်ပေး၍ မုံရွာနယ်ပရိသတ်တို့ကဝမ်းမြောက်ဝမ်းသာ ပဋိညာဉ်ပြုကြသောကြောင့် ဤနိုင်ငံလုံးဆိုင်ရာအစည်းအဝေးကြီးက အားရနှစ်သက်စွာ မှတ်တမ်းထားကြပါသည်။

ဆက်လက်၍ ဟံသာဝတီခရိုင်၊ သုံးခွမြို့၊ သူကြီးမင်းဦးထွန်းဝင်းက ပျဉ်းမနားမြို့သူမြို့သားတပည့်အပေါင်းတို့ထံ အလောင်းတော်ကိုအားရကျေနပ်အောင်ပူဇော်ကြပြီးလျှင် မုံရွာသို့ ရုပ်ကလာပ်တော်ပို့ဆောင်မည့်နေ့ရက်ကို ထပ်မံသတ်မှတ်ပေးရန် ပျဉ်းမနားသို့အန္တးအညွှတ်သွားရောက်ပြောကြစေခြင်းငှာ ဤအစည်းအဝေးကြီးသို့ ကြွရောက်လာသောပရိသတ်ထဲမှ သင့်လျော်သောသံဃာတော်အရှင်မြတ်နှင့် လူပုဂ္ဂိုလ်တို့ကို ရွေးချယ်ပြီးစေလွှတ်သင့်ကြောင်း အဆိုသွင်း၍ မင်းတိုင်ပင်အမတ်ဦးကိုကြီးကထောက်ခံသဖြင့်အောက်ပါအတိုင်း ဆုံးဖြတ်ပြဋ္ဌာန်းကြသည်။

ဆုံးဖြတ်ချက်–၂။ ကျေးဖူးရှင်လယ်တီဆရာတော်ဘုရားကြီးစံလွန်တော်မူသောအခါ၌ အမြို့မြို့အရွာရွာအနယ်နယ်မှ လာရောက်ကြကုန်သော ရဟန်းပရိသတ် လူပရိသတ်တို့နှင့်တကွ ပျဉ်းမနားမြို့မှ ဒါယကာဒါယိကာမနှင့် လူအပေါင်းတို့သည် မိမိတို့စိတ်ကျေနပ်အားရလောက်အောင် ပူဇော်ဖွယ်အမျိုးမျိုးတို့ဖြင့် ပူဇော်ကြပြီးလျှင် သက္ကရာဇ် ၁၂၈၅–ခုနှစ်မကုန်မီ *၁ နေ့ရက်သတ်မှတ်ပို့အပ်ကြစေရန် အန္တးအညွှတ်သွားရောက်ဟောပြောစေခြင်းငှာ ဆရာတော်ဘုရားကြီး၏ညီတော်ရင်း ဦးကိတ္တိ၊ အရှင်ဦးတိလောက၊ ဦးပဒုမ၊ ဦးဝဏ္ဏိတ၊ ဦးဥေယျ၊ ဦးဥတ္တမ၊ ဝန်ထောက်မင်း ဦးဘိုးထွန်း၊ ပင်စင်အငြိမ်းစား စက်ပိုင်ဦးဘော(စစ်ကိုင်း)တို့ကို ၎င်းတို့၏သဘောတူညီချက်အရစေလွှတ်ရန် အများသဘောတူဆုံးဖြတ်ကြပါသည်။

---

*၁ အေဒီ ၁၄၊ ဧပြီလ၊ ၁၉၂၄–ခုနှစ်မတိုင်မီကို ဆိုလိုသည်။

ထို့နောက် စစ်ကိုင်းမြို့ ပင်စင်အငြိမ်းစားဝန်ထောက်ကြီးဦးစံမင်းက ဆရာတော်ဘုရားကြီး၏ အမိန့်တော်ကို ရိုသေလေးစားမြတ်စွာနာခံဆောင်ရွက်ကြရမည့်အတိုင်း ဘုမ္မိဈာပန,ဥဒကဈာပန, အဂ္ဂိဈာပန သုံးမျိုးတို့တွင် မည်သည့်ဈာပနနှင့်မျှသဂြိုဟ်ကြရမည်မဟုတ်ဘဲ၊ အလောင်းတော်ကို မုံရွာမြို့၌သာ အုတ်ပြာသာဒ်အတွင်းသွင်းထား၍ အဆုံးစွန်သဂြိုဟ်ကြမည်ဖြစ်သောကြောင့် ပျဉ်းမနားမြို့တစ်မြို့တည်းကသာ အားရကျေနပ်စွာပူဇော်ခွင့်ရနိုင်ကြသည်မဟုတ်။ သက်တော်ထင်ရှားရှိစဉ်က လှည့်လည်ပူဇော်ခံဘိသကဲ့သို့ အလောင်းတော်ကိုပူဇော်လိုသောမြို့ရွာ နယ်ပယ်တို့ကလည်း အားရကျေနပ်စွာ နေ့ရက်သတ်မှတ်ပင့်ဆောင်ပူဇော်နိုင်ရရှိစေရန်သင့်ကြောင်း အဆိုတင်သွင်းရာ မုံရွာမြို့ ကုန်သည်ကြီးဦးသဲက ထောက်ခံလေသည်။

ဆုံးဖြတ်ချက်-၃။ မည်သည့်မြို့ရွာကမဆို ဆရာတော်ဘုရားကြီး၏အလောင်းတော်ကို ပင့်ဆောင်ပူဇော်လိုက နေ့ရက်သတ်မှတ်ပင့်ဆောင်ပူဇော်နိုင်ခွင့်ရရှိနိုင်ကြောင်း ဤနိုင်ငံလုံးဆိုင်ရာအစည်းအဝေးကြီးက မှတ်တမ်းတင်ထားကြသည်။

ဆက်လက်၍ သထုံမြို့ တောင်စွန်း စက်ပိုင်ရှင်ပင်စင်အငြိမ်းစားဦးဘေက ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏အလောင်းတော်ကို ပျဉ်းမနားမြို့မှ မုံရွာမြို့သို့အရောက်ပို့အပ်သောအခါ၌ မန္တလေးမြို့နှင့် စစ်ကိုင်းမြို့များသည် ဆရာတော်ဘုရားကြီး၏ကျောင်းတိုက်တာနှင့်တကွ ရဟန်းတပည့်,လူတပည့်များရှိသောဌာနဖြစ်သည့်အတွက် ၎င်းမြို့များကသာ ပူဇော်နိုင်ကြစေရန် အခွင့်ပြုရန်နှင့် ၎င်းဌာနများမှတစ်ဆင့် မုံရွာမြို့သို့ပို့ရန်ခွင့်ပြုသင့်ပါကြောင်းတောင်းဆို၍ ဝန်ထောက်ကြီးဦးစံမင်းက ထောက်ခံပါသည်။

ဆုံးဖြတ်ချက်-၄။ ဤနိုင်ငံလုံးဆိုင်ရာအစည်းအဝေးကြီးက သင့်လျော်သလောက် နေ့ရက်သတ်မှတ်၍ ပူဇော်ခွင့်ပြုရန်ဝမ်းမြောက်ဝမ်းသာ မှတ်တမ်းတင်ဆုံးဖြတ်ထားကြသည်။

၎င်းနောက်အကျိုးဆောင်က ဆုံးဖြတ်ရန်အချက်ပြီးပြည့်စုံပြီဖြစ်၍ အခြားအကြောင်းရှိခဲ့လျှင် ဆွေးနွေးဆုံးဖြတ်ရန်ဟူသောအချက်ကို ဆွေးနွေးဆုံးဖြတ်နိုင်ကြောင်းပြောကြားရာ ရန်ကုန်ချောင် ဆရာတော်ဦးဓမ္မစာရီက ဆရာတော်ဘုရားကြီး၏ ကျေးဇူးတော်ဂုဏ်တော်ကို ထင်ရှားတည်ရှိစေရန် အထိမ်းအမှတ်ကြီးတစ်ခုပြုသင့်သည်ဟုအကြံပေး၍ မင်းတိုင်ပင်အမတ် ဦးကိုကြီးက မုံရွာမြို့ပထမအကြိမ် ဈာပနကော်မတီအစည်းအဝေးကြီးတွင် ဆွေးနွေးပြီးဖြစ်သော ဆရာတော်ဘုရားကြီးပုံတူ ရုပ်တုတော်နှင့်ဒီပနီကျမ်းစာများ ကျောက်စာထုထွင်းရေးအချက်ကို အကျယ်တဝင့်ထပ်မံအဆိုတင်သွင်းရာ စစ်ကိုင်းဦးဓမ္မစာရီက ထောက်ခံသဖြင့် အောက်ပါအတိုင်း ဤအစည်းအဝေးကြီးက ဆုံးဖြတ်ပြဋ္ဌာန်းကြသည်။

ဆုံးဖြတ်ချက်-၅။ ဘဝနတ်ထံစံလွန်တော်မူသော ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ ဂုဏ်တော်ကျေးဇူးတော်တို့သည် မြန်မာရာဇဝင်, သာသနာဝင်တို့၌ ကျော်ကြားတော်မူ၍ ရဟန်းရှင်လူပြည်သူအမျိုးသားတို့ အစဉ်အဆက် အမြဲမပြတ်

အမှတ်အသား ထင်ရှားတည်စေရစ်စေခြင်းငှာ ဆရာတော်ဘုရားကြီးသက်တော် ထင်ရှားရှိစဉ် ကိုယ်တော်၏ ဝိစက္ခဏာ၊ ပညာအမြော်အမြင်အထူးဖြင့် ဤနေရာ ဤဌာနသည်သာ ပဋိဝေဓသာသနာတော်ကြီး၏မူလအကြောင်းရင်းဖြစ်သော ပရိယတ္တိ သာသနာ, ပဋိပတ္တိသာသနာတော်တို့၏စည်ပင်ပြန့်ပွားခြင်းကို စတင်ဆောင်ရွက် ခြင်းငှာ ငါ့အားလျောက်ပတ်သော နေရာဌာနအစစ်ဖြစ်ကြီးဖြစ်သည်ဟု လက်မွန်မဆွ စတင်တည်ထောင်တော်မူခဲ့သော ရဟန်းသံဃာတော်တို့ဖြင့် စည်ကားထွန်းတောက်၍ ကျက်သရေအပေါင်းဖြင့် တင့်တယ်လျက်ရှိသော ဤမုံရွာမြို့ လယ်တီတိုက်ကြီး အတွင်း၌ ရဟန်းရှင်လူအပေါင်းတို့၏ လောကီလောကုတ္တရာနှစ်ဖြာစီးပွားအလို့ငှာ ရေးသားပြုစုထားတော်မူခဲ့သော ကျမ်းစာအရပ်ရပ်အလုံးစုံတို့ကို ကျောက်ထက် အက္ခရာတင်၍ ကျောက်ချပ်တို့ဖြင့် ထက်ဝန်းကျင်ခြံရံအပ်သော ကျေးဇူးရှင်လယ်တီ ဆရာတော်ဘုရားကြီး၏ရုပ်လုံးပုံတော်နှင့်တကွ ပိဋကတ်တိုက်ကြီးကို တည်ထား ဆောက်လုပ်ရန် ဤနိုင်ငံလုံးဆိုင်ရာအစည်းအဝေးကြီးက အညီအညွတ်ဆုံးဖြတ် ပြဋ္ဌာန်းကြသည်။

ထို့နောက် စစ်ကိုင်းဦးဓမ္မစာရီအရှင်က အမြို့မြို့အရွာရွာမှ စည်းဝေးရောက်လာကြပေ ကုန်သော ဆရာတော်သံဃာတော် လူဒါယကာဒါယိကာပရိသတ်အား စိတ်တူကိုယ်မျှ ညီညာဖျဖျ ဆရာတော်ဘုရားမိန့်မှာထားတော်မူခဲ့သည့်အတိုင်း လိုက်နာဆောင်ရွက်စည်းဝေးပြဋ္ဌာန်းကြသည် များကို ဆရာတော်ဘုရားကြီး၏ညီတော်ရင်း စိုင်ပြင်ရွာဆရာတော်ဦးကိတ္တိအရှင်မြတ်နှင့်တကွ မုံရွာလယ်တီတိုက်သံဃာများ၊ မုံရွာမြို့ ဒါယကာဒါယိကာမများက အထူးကျေးဇူးဥပကာရတင်ရှိ ပါကြောင်းဖြင့်ပြောကြား၍၊ အမိန့်တော်ရမင်း တိုင်ပင်ခံအမတ် ဦးကိုကြီးကလည်း အစည်းအဝေး နာယကအဖြစ်ဖြင့်အုပ်ချုပ်ဆောင်ရွက်တော်မူသော မန္တလေးမြို့ ဓမ္မာရုံ စံကျောင်းဆရာတော်ကြီး အရှင်စိန္တာအား ဤအစည်းအဝေးကြီးက အထူးကျေးဇူးတင်ရှိပါကြောင်း လျှောက်ထားပြီးလျှင် ပရိသတ်အားလုံးတို့ကလည်း ကောင်းချီးသြဘာမင်္ဂလာထုတိပသံသဖြင့် 'သာဓု သာဓု သာဓု' ဟု အုတ်အုတ်သဲသဲ ချိမ့်ဝှဲရိုက်ဆော်အနုမောဒနာပြုကြလေသည်။

ထို့နောက် အကျိုးဆောင်က 'ဤနိုင်ငံလုံးဆိုင်ရာအစည်းအဝေးကြီးသည် မထစ်မထောင့် ဖြောင့်ဖြောင့်စင်းစင်း ပြီးစီးခြင်းသို့ ရောက်ပါပြီ' ဟုပြောဆိုကာ အစည်းအဝေးကို ညနေ(၅)နာရီခွဲ အချိန်တွင် ရုပ်သိမ်းလိုက်လေသည်–ဟူ၍ ဖြစ်ပါသည်။[*၁]

## ဆရာတော်ကြီး၏ ညီတော်ဦးကိတ္တိ

လယ်တီဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို မုံရွာမြို့သို့ ပင့်ဆောင်နိုင်ရေးအတွက် ဆရာတော်ဘုရားကြီး၏ညီအရင်း စိုင်ပြင်ရွာ၊ ကျောင်းမကျောင်းဘုန်းကြီးဦးကိတ္တိ ဦးဆောင်သော

[*၁] လယ်တီဆရာတော်ဘုရားကြီးပြန်လွန်တော်မူသောကိစ္စ သာခုကိုင်ဇနသဘင်အတွက် နိုင်ငံလုံးဆိုင်ရာအစည်းအဝေးကြီးက ဆုံးဖြတ်စည်းဝေးပြဋ္ဌာန်းချက်အရပ်ရပ်များ။ (စာမျက်နှာ ၁–၁၈)။

ကိုယ်စားလှယ်တော်အဖွဲ့သည် ပျဉ်းမနားသို့ သွားရောက်၍ပြောဆိုကြသောအခါ ပျဉ်းမနားမြို့ခံဒါယကာအချို့က ဆရာတော်ဘုရားကြီး၏ရုပ်ကလာပ်တော်ကို စိန်ကျောက်ရတနာအမျိုးမျိုးတို့ဖြင့် စီခြယ်ထားသောကမ္ဗလာဖြင့်ဖုံးလွှမ်းပြီး ဘော်ငွေပြာသာဒ်တလား စသည်ဖြင့် ခမ်းနားကြီးကျယ်စွာပူဇော်ထားရှိပုံစသည်တို့ကိုပြသပြီး ဦးကိတ္တိအား 'ဤသို့ပူဇော်ထားသည်ကို အရှင်ဘုရားသဘောကျနှစ်သက်ပါ၏လော'ဟု မေးမြန်းလျှောက်ထားကြကြောင်းနှင့် ထိုအခါ ဘုန်းကြီးဦးကိတ္တိမှာ အလွန်ရိုးသားတော်မူလှသည်ဖြစ်၍ 'မိမိနောင်တော်ကြီး၏ ဝိညာဉ်မစပ် ဥတုဇရုပ်ကလာပ်တော်အား ဤသို့အံ့မခန်းအဆန်းတကြယ်ပူဇော်ကြသည်ကို များစွာအားရဝမ်းသာကြောင်း' မိန့်ကြားတော်မူလျှင် အချို့သောပုဂ္ဂိုလ်တို့က 'ဆရာတော်ဘုရားကြီး၏ညီအရင်းဆရာတော်ဦးကိတ္တိကိုယ်တော်ကပင် ပျဉ်းမနားမြို့အနေဖြင့် ဤသို့ပူဇော်ကြသည်ကို သဘောတူနှစ်သက်ကြောင်း'စသည်ဖြင့်ကြေညာကာ သာဓုသုံးကြိမ်ခေါ်ခဲ့ကြကြောင်း–စသည်ဖြင့်လည်းပြောဆိုစကားများရှိခဲ့လေသည်။[*၁]

**ပျဉ်းမနားဈာပနပွဲသတင်း**

သက္ကရာဇ် ၁၂၈၅–ခုနှစ်၊ တပေါင်းလဆန်း ၄–ရက် (အေဒီ ၈–ရက်၊ မတ်လ၊ ၁၉၂၄–ရက်) နေ့ထုတ် သူရိယသတင်းစာတွင် မြသန်းဆိုသူပုဂ္ဂိုလ်က လယ်တီဆရာတော်ဘုရားကြီး၏အန္တိမဈာပနပူဇော်ပွဲအကြောင်း ဤသို့ရေးသားဖော်ပြထားပြန်ပါသည်။

**ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ ဈာပနပွဲအကြောင်း**

ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ သာဓုကီဠနပွဲသဘင်ကို ယခုတပေါင်းလဆန်း ၈–ရက် (အေဒီ ၁၂၊ မတ်လ၊ ၁၉၂၄–ခုနှစ်) နေ့ကအစပြု၍ အရှုပ်အထွေးမှ ငြိမ်းအေးပြီဟု ဆိုရပေလိမ့်မည်။ အကြောင်းကား မုံရွာက ပထမဆိုင်ရာအစိုးရများထံ အလောင်းတော်ကိုရလိုကြောင်း တောင်းဆိုမေးမြန်းသော်လည်း 'ဘာသာရေးတွင် အစိုးရကပင ဝင်ရောက်စွက်ဖက်ခြင်းကိုမလိုလား'ဟု ပြန်ကြားလေသည်။ နောက်ဆုံး၌သာသနာပိုင်[*၂] ထံချဉ်းကပ်ရာ ၎င်းအမှုကို လက်ခံသည်ဆိုကြောင်း။ ၎င်းကတစ်ဆင့် ရမည်းသင်းအရေးပိုင်ထံ အမှုမပြီးမချင်း အလောင်းတော်ကို မီးမသင်္ဂြိုဟ်ရန် အမိန့်ဖို့ပေးမေတ္တာရပ်ခံလေသည်။[*၃] ထိုအခါတွင် ၁၂၈၅–

[*၁] လယ်တီဦးဝဏ္ဏိတ(ဆရာကြီးဦးလှတင်)၏ပြောပြချက်ဖြစ်ပါသည်။

[*၂] တောင်ခွင်သာသနာပိုင်ကို ဆိုလိုသည်။

[*၃] တောင်ခွင်သာသနာပိုင်ဆရာတော်၏မေတ္တာရပ်ခံစာအရ ရမည်းသင်းအရေးပိုင်က သက္ကရာဇ် ၁၂၈၅–ခုနှစ် တပို့တွဲလဆုတ် (၁၁) ရက် (အေဒီ ၁၊ မတ်လ၊ ၁၉၂၄–ခုနှစ်) တွင် ပျဉ်းမနားမြို့လူကြီးများကို ရမည်းသင်းအရေးပိုင်သို့ဆင့်ခေါ်၍ ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို မီးမရှို့ရန်နှင့် ၎င်းကိုယ်တိုင် စစ်ပုလိပ် ၁၀၀၀ ခန့်နှင့်လာရောက်စောင့်ရှောက်မည့်အကြောင်းပြောပြသည်။ ဦးကဝိ၏လယ်တီဆရာတော်ဘုရားကြီးအလောင်းတော်ကို ပျဉ်းမနားမြို့၌ မီးမသင်္ဂြိုဟ်စေရန် ရမည်းသင်း ဒိစတြိတ်အရေးပိုင်က တားမြစ်သောအမိန့်အကြောင်း။ သူရိယသတင်းစာ။ အတွဲ–၉။ အမှတ်–၄၁။ (စာမျက်နှာ–၁၃)။

ခုနှစ်၊ တပို့တွဲလဆုတ် (၁၁)ရက် (အေဒီ ၁၊ မတ်လ၊ ၁၉၂၄–ခုနှစ်)တွင် အရေးပိုင်က ပျဉ်းမနားမြို့ လယ်တီဝေယျာဝစ္စအသင်းလူကြီးများကို တွေ့ဆုံစကားပြောကြားပြီးနောက် အထက်ဖော်ပြရာပါအတိုင်းပြောဆိုလေသည်။ 'အလောင်းတော်ကို မီးရှို့လျှင် ပွဲမိန့်ကိုဖျက်မည်' ဟုပြောလေသည်။ အသင်းလူကြီးများက စဉ်းစားပြီးမှ 'သက္ကရာဇ် ၁၂၈၅–ခုနှစ်၊ တပို့တွဲလကွယ်နေ့ (အေဒီ ၄၊ မတ်လ၊ ၁၉၂၄–ခုနှစ်) တွင် စကားပြန်မည်'ဟု ကတိထားခဲ့ကြလေသည်။ ချိန်းဆိုသောနေ့၌ အလောင်းတော်ကို မီးမရှို့ရန် အရေးပိုင်ကတားမြစ်သည့်အတွက် အရေးပိုင်ထံ တရားဝင်အမိန့်စာ လက်မှတ်တောင်းဆိုကြသောအခါ အရေးပိုင်က 'ဤကိစ္စအတွက် မိမိ၌ အာဏာမရှိ' ဟုပြောလေသည်။ အသင်းလူကြီးများကလည်း 'ဤအမှုသည် သာသနာပိုင်နှင့် မဆိုင်၍ သာသနာပိုင်၏အမိန့်ကို မနာခံနိုင်ကြောင်း၊ ပြည်ပိုင်အစိုးရ၏အမိန့်ဖြစ်ပါမူ မိမိတို့မှာနာခံရမည်ဖြစ်ကြောင်း'–ပြောကြလေသည်။ ထိုအခါ အစိုးရဆိုင်ရာတို့ကလည်း တပေါင်းလဆန်း ၂–ရက် (အေဒီ ၆၊ မတ်လ၊ ၁၉၂၄–ခုနှစ်)နေ့ မိမိတို့ ပျဉ်းမနားသို့ လာရောက်စောင့်ရှောက်မည်ဖြစ်ကြောင်း ပြန်လည်ပြောကြားခဲ့ကြသည်။

အချို့အချို့သော အရပ်ဒေသများတွင် အလောင်းတော်ကို တားဝရမ်းထုတ်သည်ဆိုသောစကားများသည် လုံးလုံးမမှန်ချေ။ ပွဲလည်း ကြော်ငြာသည့်ရက်အတွင်းမှာပင် ကျင်းပလိမ့်မည်ဖြစ်ကြောင်း၊ ယခုအခါ ပျဉ်းမနားမြို့၌ မဏ္ဍပ်ကန္နားအစရှိသော အဆောက်အအုံတို့မှာ ပြီးစီးသလောက်ရှိလေပြီ၊ ရတနာဆယ်ပါး အဖိုးတစ်သောင်းကျော် ပြာသာဒ်ကြီးလည်း ပြီးလုပြီဖြစ်ကြောင်း။

ယခုအခါ ပျဉ်းမနားမြို့၌ သာဓုကီဠနပွဲသဘင်ဆင်ယင်တော့မည်ဖြစ်သဖြင့် လူတိုင်းလာရောက်ပူဇော်ရန် နှိုးဆော်လိုက်ရမည်ဖြစ်ပါကြောင်း *၁–ဟူ၍ဖြစ်ပါသည်။

### ပျဉ်းမနားမြို့၏ ဈာပနပွဲအစီအစဉ်

ပျဉ်းမနားမြို့၊ ငွေတောင်တောင်ထိပ်ရှိ လယ်တီစံကျောင်းတော်ကြီးနှင့်ရှမ်းကန်ကြီးအတွင်းတို့၌ လယ်တီဆရာတော်ဘုရားကြီး၏ အန္တိမဈာပနပူဇော်ပွဲသဘင်ဆင်ယင်ကျင်းပရန် ပြင်ဆင်ထားကြပုံတို့ကိုလည်း ပျဉ်းမနားမြို့ လယ်တီစံကျောင်း၌သီတင်းသုံးနေသော အကျိုးတော်ဆောင် ဘိက္ခုဦးသူရိယက သူရိယသတင်းစာတွင် အောက်ပါအတိုင်း ရေးသားဖော်ပြထားပြန်ပါသည်။

၁။ တိုက်ပုံလောင်တိုက်မှာ အမြင့် ၅၂–တောင်၊ အနံပတ်လည် ပေ–ရ၀ ရှိ၍ အဖိုးငွေ တစ်ထောင်တန်သည်။

၂။ ပျဉ်းမနားမြို့လယ် ရှမ်းကန်ခေါ် ရေကန်ကြီးအတွင်း၌ အလောင်းတော်မြတ်ကို ပူဇော်ကျင်းပရန် နဂါးနှစ်ကောင်ဖောင်တော်ကြီး။ ၎င်းဖောင်တော်ကြီးအပေါ်၌

*၁ မြသန်း၏ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ ဈာပနပွဲအကြောင်း။သူရိယသတင်းစာ၊အတွဲ–၉၊ အမှတ်–၄၁။ ၈၊ မတ်လ၊ ၁၉၂၄–ခုနှစ်။ (စာမျက်နှာ–၁၄)။

ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏တပည့်ရင်း ပျဉ်းမနားမြို့ လယ်တီဦးဥေယျ ကိုယ်တော်သည် စိန်သားရွှေဒဂါးအစစ်နှင့် မွမ်းမံချယ်စီပြုလုပ်ပူဇော်အပ်သော အဖိုးငွေ သုံးသောင်းတန် စိန်ခေါင်းတော်တွင်းသို့ အလောင်းတော်မြတ်ကို ပြောင်းရွှေ့ထည့်သွင်း တော်မူ၍ ညအခါလျှပ်စစ်ဓာတ်မီးအပွင့်ပေါင်း ငါးရာကျော်ထွန်းပြီး သကာလ အငြိမ့်, သဘင်,ယိမ်း,တူရိယာစုံလင်စွာနှင့် ကျင်းပပူဇော်လိမ့်မည်။

၃။ ကျေးဇူးရှင်ဆရာတော်ဘုရားကြီးနှင့်အသွင်တူ ကြေးဖြင့်ပြုလုပ်စီမံသော ငွေတစ်ထောင့် ငါးရာတန် မတ်ရပ်ရုပ်ပုံတော်ကို သက္ကရာဇ် ၁၂၈၅-ခုနှစ်၊ တပေါင်းလဆန်း ၈-ရက်နေ့ (အေဒီ ၁၂၊ မတ်လ၊ ၁၉၂၄-ခုနှစ်)၌ သွန်းလုပ်ပြီးလျှင် ပွဲကျင်းပ၍ အစပြုလုပ်ပါ လိမ့်မည်။ ဤအခါ အငြိမ့်,သတို့သမီးအရုပ်ယိမ်းများနှင့် တူရိယာစုံလင်စွာ ပွဲများ ကျင်းပပါလိမ့်မည်။

၄။ ကျေးဇူးတော်ရှင်လယ်တီဆရာတော်ဘုရားကြီး၏တပည့်ကြီးဖြစ်သော သေက္ချတောင် ဆရာတော်ကြီးဦးတိလောကအရှင်မြတ် ပြုလုပ်စီမံပူဇော်အပ်သော ငွေတစ်သောင်း ခြောက်ထောင်ကျော်တန် ရတနာစစ်ပြာသာဒ်တော်နှင့် နိဗ္ဗာန်စံကျောင်းတော်မှ အထက်အဆိုပါ တိုက်ပုံလောင်တိုက်တော်သို့ သက္ကရာဇ် ၁၂၈၅-ခုနှစ်၊ တပေါင်း လဆန်း ၁၀-ရက် (အေဒီ ၁၄၊ မတ်လ၊ ၁၉၂၄-ခုနှစ်) နေ့၌ ရွှေ့ပြောင်းပူဇော် ပါလိမ့်မည်။

၅။ အလောင်းတော်မြတ်ကို သက္ကရာဇ် ၁၂၈၅-ခုနှစ်၊ တပေါင်းလဆန်း ၁၁-ရက် (အေဒီ ၁၅၊ မတ်လ၊ ၁၉၂၄-ခုနှစ်)နေ့ ညနေ(၅)နာရီအချိန်၌ သံဃာတော်အရှင်မြတ် များနှင့် ပင့်ဆောင်၍ ရှမ်းကန်အတွင်း နဂါးဖောင်စံကျောင်းတွင် ည(၆)နာရီက(၁၂)နာရီ အထိ ကိုးကွယ်ရှိခိုးစက်တော်မူပြီးလျှင် သတို့သမီးနဂါးမယိမ်းများနှင့် ကျင်းပပူဇော်ပါလိမ့်မည်။

၆။ သက္ကရာဇ် ၁၂၈၅-ခုနှစ်၊ တပေါင်းလဆန်း ၁၂-ရက် (အေဒီ-၁၆၊ မတ်လ၊ ၁၉၂၄-ခုနှစ်)နေ့တွင် အထက်အဆိုပါ ရှမ်းကန်အတွင်း နဂါးဖောင်တော်ပေါ်သို့ လူဒါယကာ ဒါယိကာမများနှင့် အလောင်းတော်မြတ်ကို တိုက်ပုံလောင်တိုက်တော်က ပင့်ဆောင်၍ အထက်အဆိုပါအတိုင်း ည(၆)နာရီက (၁၂)နာရီအထိ ပူဇော်ပါလိမ့်မည်။

၇။ ကျေးဇူးရှင်ဆရာတော်ဘုရားကြီးအလောင်းတော်မြတ်ကို သက္ကရာဇ် ၁၂၈၅-ခုနှစ်၊ တပေါင်းလဆန်း ၈-ရက် နေ့ကအစပြု၍ ပွဲလမ်းသဘင်ဆင်ယင်ကျင်းပပြီးလျှင် ၎င်းတပေါင်းလဆန်း ၁၅-ရက် (အေဒီ-၁၉၊ မတ်လ၊ ၁၉၂၄-ခုနှစ်)နေ့ ညနေအချိန် တိုက်ပုံလောင်တိုက်အတွင်း သဟမ္ပတိဗြဟ္မာမင်းကြီးရုပ်ပုံနှစ်ရုပ်ကထမ်းပြီးသကာလ နဂါးရုပ်နှစ်ကောင် တစ်ပတ်ရိုက် ခေါင်းချင်းဆိုင်ပြီးလျှင် ၎င်းနဂါး၏ခံတွင်းက အနီး အနီ, အပြာ, အစိမ်း, အညို ရောင်စုံမှုတ်၍ အလောင်းတော်မြတ်ကို ဓာတ်ခဲနှင့် မီးပူဇော်ပါလိမ့်မည်။

၈။ အလောင်းတော်မြတ်ကို သက္ကရာဇ် ၁၂၈၅-ခုနှစ်၊ တပေါင်းလဆန်း ၁၅-ရက်နေ့ အထက်အဆိုပါအတိုင်း မီးပူဇော်ပြီးလျှင် ကြွင်းကျန်ရစ်သော အရိုးတော်ဓာတ်နှင့် ကြေးပုံတော်၊ ဆရာတော်ဘုရားကြီးကိုယ်တော်တိုင် ရေးသားစီရင်အပ်သော သဂြိုဟ် မဟာဋီကာသစ်၊ မောဂ္ဂလာန်အဖွင့်နိရုတ္တိဒီပနီပါဠိများနှင့် အလုံးစုံသော ဒီပနီကျမ်းစာ များကို ကျောက်ထက်အက္ခရာတင်၍ ပျဉ်းမနားမြို့ ငွေတောင်တောင်ထိပ်၌ အဖိုးငွေ တစ်သိန်းကျော်ကုန် အိန္ဒိယနယ် မိလိန္ဒမင်းကြီး ဆောက်လုပ်လှူဒါန်းသော ရဟန္တာ ထေရ်ရှင် နာဂသေနသီတင်းသုံးသည့် ကျောင်းတော်ပုံအတိုင်း ပိဋကတ်တိုက်တော်ကြီး ဆောက်လုပ်တည်ထားကိုးကွယ်ပါလိမ့်မည် ဖြစ်ကြောင်း-စသည်ဖြင့် ဖြစ်ပါသည်။ *၁

**ဆရာတော်ဘုရားကြီး၏ အဓိဋ္ဌာန်**

အထက်၌ဖော်ပြခဲ့သည့်အတိုင်း ပျဉ်းမနားမြို့ ဈာပနကော်မတီက အစီအစဉ်များပြုလုပ်၍ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးရုပ်ကလာပ်တော်ကို သက္ကရာဇ် ၁၂၈၅-ခုနှစ်၊ တပေါင်း လပြည့်နေ့(အေဒီ ၁၉၊ မတ်လ၊ ၁၉၂၄-ခုနှစ်)တွင် အဂ္ဂိဈာပနပူဇော်ခြင်းကိစ္စအဝဝကို အောင်အောင် မြင်မြင်ဆောင်ရွက်နိုင်ကြလိမ့်မည်ဟု ထင်မှတ်ရန်ရှိလေသည်။ မြန်မာနိုင်ငံအဝန်း အမြို့မြို့ အရွာရွာတို့၌ရှိကြကုန်သော ရှင်လူပရိသတ်အပေါင်းတို့ကလည်း ဤအတိုင်းပင် ထင်မြင်ကြပါသည်။ ထိုစဉ်က မုံရွာမြို့၌ရောက်ရှိနေသော လယ်တီပဏ္ဍိတဦးမောင်ကြီးသည် ဆရာတော်ဘုရားကြီး၏ သာဓုကီဠနသဘင် ဆင်ယင်ကျင်းပမည့် နောက်ဆုံးနေ့ ၁၂၈၅-ခုနှစ်၊ တပေါင်းလပြည့်နေ့တွင် ဆရာတော်ဘုရားကြီး ပါဠိဘာသာဖြင့်ရေးသားတော်မူခဲ့သော ယမိုက်ပုစ္ဆာအဖြေကျမ်းကို မြန်မာ ဘာသာပြန်ဆိုရေးသားခဲ့ရာ ပြီးဆုံးခြင်းသို့ရောက်ခဲ့သဖြင့် ကျမ်းနိဂုံးတွင် အောက်ပါအတိုင်း မှတ်တမ်းတင်ထားခဲ့ပါသည်။

> '၁၂၈၅-ခု တပေါင်းလပြည့်နေ့ ဤကျမ်းကိုရေး၍ပြီးသည်။ ဤကျမ်းပြီးသော နေ့၌ပင်လျှင် ကျေးဇူးရှင်လယ်တီဆရာတော်ဘုရား၏ အလောင်းတော်ကို ပျဉ်းမနား မြို့၌ သာဓုကီဠနသဘင် ဆင်ယင်ပူဇော်၍ ဈာပနပွဲကြီးကိုကျင်းပသည်' -ဟူ၍ ဖြစ်ပါသည်။ *၂

စင်စစ်အားဖြင့် ထို ၁၂၈၅-ခုနှစ်၊ တပေါင်းလပြည့်နေ့တွင် ပျဉ်းမနားမြို့ ဈာပနကော်မတီ၏ အစီအမံအတိုင်း လယ်တီဆရာတော်ဘုရားကြီးရုပ်ကလာပ်တော်ကို နဂါးခံတွင်းက မီးအနိုးများ မှုတ်လွှတ်၍ အဂ္ဂိဈာပနပူဇော်ပွဲဆင်နွှဲခြင်းမပြုခဲ့ရပေ။ အကြောင်းမှာ ထိုသို့အဂ္ဂိဈာပနပူဇော်ပွဲနေ့က အစီအစဉ်များအတိုင်း ပြုလုပ်ကျင်းပလာကြရာ နောက်ဆုံးအစီအစဉ်သို့ရောက်ရှိ၍ ဆရာတော် ဘုရားကြီးရုပ်ကလာပ်တော်ကို အဂ္ဂိဈာပနပူဇော်ရန် ပြင်ဆင်ကြသောအခါ ဆရာတော်ဘုရားကြီး ရုပ်ကလာပ်တော်မှာ ပျော့ပျော့ပျောင်းပျောင်း ပကတိကျိန်းစက်တော်မူနေသည့်အလားသို့

---

*၁ သူရိယသတင်းစာ၊ အတွဲ-၉၊ အမှတ်-၄၁။ ၈၊ မတ်လ၊ ၁၉၂၄-ခုနှစ်။ (စာမျက်နှာ-၁၃၊ ၁၄)။
*၂ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ယမိုက်အဖြေကျမ်း။ ၁၉၅၄-ခုနှစ်။ (စာမျက်နှာ-၃၆၇)။

ရှိနေသောကြောင့် အများဆန္ဒအရ အင်္ဂါရပ်နှင့်ပူဇော်ခြင်းမပြုတော့ဘဲ ရုပ်ကလာပ်တော်ကို ဂူပြာသာဒ်အတွင်းသွင်းကာသာ အပူဇော်ခံထားရှိရန် ပြောင်းလဲဆုံးဖြတ်ခဲ့ကြပါသည်။

သို့ဖြစ်၍ သက္ကရာဇ် ၁၂၈၅–ခုနှစ်၊ လပေါင်းလပြည့်ကျော် (၁) ရက်နေ့ (အေဒီ ၂၀၊ မတ်လ၊ ၁၉၂၄–ခုနှစ်) တွင် စစ်ကိုင်းတိုင်းမင်းကြီး၊ ပဲခူးတိုင်းမင်းကြီး၊ ရမည်းသင်းအရေးပိုင်နှင့်နယ်ပိုင်တို့သည် ဂိုဏ်းပေါင်းစုံဆရာတော်ဘုရားကြီးတို့၏ရှေ့မှောက်မှာပင် ဆရာတော်ဘုရားကြီး ရုပ်ကလာပ်တော်ကို မှန်စီရွှေချခေါင်းအတွင်းသို့ ပြောင်းရွှေ့ထည့်သွင်းစံမြန်းစေပြီး၊ ပျဉ်းမနားမြို့ ငွေတောင်ထိပ် လယ်တီစံကျောင်းအတွင်းရှိ အသင့်ပြုလုပ်ထားသော အုတ်ဂူပြာသာဒ်ပလ္လင်ပေါ်သို့ တင်လျက် အပူဇော်ခံထားရှိခဲ့ကြပါသည်။*၁

ထိုအုတ်ဂူမှာ သံတံခါးနှစ်ထပ်တပ်ထား၍ အာမခံသော့ခလောက်များခတ်ကာ ဂူပေါက်ကိုလည်း အုတ်အင်္ဂတေတို့ဖြင့် အသေပိတ်ထားလိုက်သည်။ သံတံခါးသော့ကို ရမည်းသင်းအရေးပိုင်နှင့်နယ်ပိုင်တို့က ထိန်းသိမ်းထားကြသည်။ အုတ်ဂူနှင့်မလှမ်းမကမ်းတွင် ဇေယျာခံမဏ္ဍပ်ကြီးကိုဆောက်လုပ်ထားပြီး မဏ္ဍပ်အတွင်း အနယ်နယ်မှကြွလာကြသော ဂိုဏ်းပေါင်းစုံက ဆရာတော်ကြီးများ သီတင်းသုံး၍ လယ်တီဆရာတော်ကြီး၏ ကျေးဇူးတော်ဂုဏ်တော်များကို ဆွေးနွေးမိန့်ကြားနေတော်မူကြပါသည်။*၂

ထိုနေ့ညဉ့်သန်းခေါင်းကျော်အချိန်မှစ၍ မြေငလျင်သုံးကြိမ်လှုပ်သည်။ နံနက်အရုဏ်တက်ချိန်၌ ပျဉ်းမနားမြို့ လယ်တီစံကျောင်းဘုန်းကြီးဦးဥေယျက အာဂန္တုဆရာတော်များ၏ ဆွမ်းကွမ်းဝေယျာဝစ္စများဆောင်ရွက်နေပါသည်။ ထိုစဉ်အရုဏ်ဆွမ်းလာကပ်ကြသော ဒကာ, ဒကာမအချို့သည် ဘုန်းကြီးဦးဥေယျထံ အမောတကောရောက်လာကြပြီး ဆရာတော်ဘုရားကြီး၏ရုပ်ကလာပ် အပူဇော်ခံထားရာ အုတ်ဂူမှအုတ်အချို့ပြိုကျနေကြောင်း လျှောက်ထားကြသည်။ ဆရာတော်ဦးဥေယျနှင့် အခြားကိုယ်တော်များသွားကြည့်ကြရာ အုတ်ဂူ၏အနောက်ဘက်နေရာ၌ ဂူပျက်နေကြောင်းတွေ့ရသော်လည်း အတွင်းသံတံခါး၌ခတ်ထားသောသော့မှာ မပျက်မစီးဘဲ၊ ရုပ်ကလာပ်တော်ထည့်သွင်းအပူဇော်ခံထားသည့်ခေါင်းတော်မှာလည်း အုတ်ပလ္လင်ပေါ်၌ မူလအတိုင်းရှိနေကြောင်းတို့ကိုမြင်တွေ့ရသဖြင့် စိတ်အေးချမ်းသာပြန်လာခဲ့ကြပါသည်။

ထိုအုတ်ဂူပြာသာဒ်အနီးဇေယျာခံမဏ္ဍပ်ကြီးအတွင်း၌ သီတင်းသုံးနေတော်မူကြသော အာဂန္တုဆရာတော်ကြီးများအား ဦးဥေယျက ယမန်နေ့ညဘက်တွင် မြေငလျင်လှုပ်၍ အုတ်ဂူအနောက်ဘက်၌ အနည်းငယ်ပြိုသွားကြောင်း လျှောက်ထားခဲ့ပါသည်။ ထိုအခါ အာဂန္တုဆရာတော်ကြီးများကလည်း ညက ဤအုတ်ဂူအနီး၌ ဖယောင်းတိုင်မီးကဲ့သို့မီးရောင်မျိုး မှိတ်ချည်လင်းချည် တွေ့ရကြောင်း မိန့်ကြားပါသည်။ မြို့ထဲမှလာကြသောပုဂ္ဂိုလ်အချို့ကလည်း ညကမြေငလျင်လှုပ်ပြီးချိန်၌ ကောင်းကင်မှတူရိယာသံများကြားရကြောင်း ပြောကြားကြသည်။

---

*၁ ထိုအုတ်ဂူမှာ ပျဉ်းမနားမြို့ လယ်တီစံကျောင်းဝင်းအတွင်း မူလစံကျောင်း၏အနီး၌ရှိသည်။ အမြင့် ၁၀–ပေခန့်ရှိပြီး လေးထောင့်စပ်စပ်ပုံစံဖြစ်သည်။ ထိုဂူပြုလုပ်ခဲ့သူ ဦးအာဒိစ္စဘွဲ့ခံ ဦးအောင်ကြီး၏ ပြောပြချက်ဖြစ်ပါသည်။

*၂ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၂၄၅)။

ဘုန်းတော်ကြီးဦးဥေယျသည် သံသယဖြစ်လာကာ နံနက်လင်းလျှင် ချက်ချင်းပင် ကျောင်းဒကာကြီးဦးလန်း၊ ရမည်းသင်းအရေးပိုင်နှင့်နယ်ပိုင်တို့ကိုခေါ်ယူစေခဲ့ပါသည်။ လူပရိသတ်စုံသော် အုတ်ဂူပြာသာဒ်ရှိ သံတံခါးသော့ကိုဖွင့်ကြည့်ကြသောအခါ အုတ်ဂူအတွင်း အုတ်ပလ္လင်ပေါ်ရှိ မှန်စီရွှေချခေါင်းမှာ လက်ရာခြေရာမပျက် မူလအတိုင်းရှိနေသော်လည်း ထိုခေါင်းအတွင်းရှိ ဆရာတော်ဘုရားကြီးရုပ်ကလာပ်တော်မှာမူကား တေဇောဓာတ်လောင်ကျွမ်းထားသော ပြာများအဖြစ်ကိုသာ တွေ့ကြရတော့သည်။

ဤသို့လယ်တီဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော် တေဇောဓာတ်လောင်ကျွမ်းသည့်သတင်း ချက်ချင်းပင် မြို့လုံးအနှံ့ ပျံ့နှံ့သွားပါသည်။ ဆရာတော်ဘုရားကြီး၏ရုပ်ကလာပ်တော်ကို ဤသို့ လူမသိသူမသိ တေဇောဓာတ်လောင်ရသည်ကို မကျေမနပ်ဖြစ်ကြသည်။ သက်ဆိုင်ရာပုဂ္ဂိုလ်တို့ကလည်း မိမိတို့ကိုယ်တိုင် သော့ကိုင်ထိန်းသိမ်းထားပါလျက် ဤသို့ဖြစ်ပျက်ရသည်ကို မကျေနပ်ကြပေ။

သို့ပါ၍ လယ်တီဆရာတော်ဘုရားကြီး၏ရုပ်ကလာပ်တော် တေဇောဓာတ်လောင်ပုံနှင့်စပ်၍ သက်ဆိုင်ရာပုဂ္ဂိုလ်တို့က လယ်တီအသိုင်းအဝန်းအတွင်း စုံစမ်းကြ, မေးမြန်းကြ,စစ်ဆေးကြဖြင့် ထိုစဉ်အခါက အတော်ပင်ရှုပ်ရှုပ်ထွေးထွေးဖြစ်ခဲ့ကြရပါသည်။ ဤသို့ဖြစ်ပျက်ပြီး သုံးလခန့်ကြာသော် သက်ဆိုင်ရာပုဂ္ဂိုလ်တို့က လက်သည်တရားခံဖော်ထုတ်ရှာဖွေ၍မရသည့်အတွက် ပျဉ်းမနားမြို့ ဈာပနကော်မတီဝင် ကျောင်းဒကာကြီးဦးလန်း၊ ဆရာကြီးဦးထွန်းလှိုင်တို့အား တရားခံရှာမတွေ့ပါက အပြစ်ဒဏ်ပေးတော့မည်ဟု ထိုလူကြီးတို့အားအပြစ်ပုံချကာ အပြစ်ဒဏ်ပေးမည့်အကြောင်းပြောကြားသောအခါ ရှင်လူပရိသတ်တို့အကြားက ရဟန်းပုဂ္ဂိုလ်တစ်ဦးပေါ်ထွက်လာပြီး ထိုပုဂ္ဂိုလ်ကပင် မိမိဆောင်ရွက်ခဲ့သမျှကို အောက်ပါအတိုင်းဖွင့်ဟမိန့်ကြားတော်မူခဲ့ပါသည်။

**နတ်သိကြားတို့၏ အစီအမံလော**

ဤသို့ရှင်လူပရိသတ်တို့အကြားက ထ,၍ 'လက်သည်အစစ်ဟာ ကျုပ်ပဲ'ဟု ရဲရဲဝံ့ဝံ့ဝန်ခံကာ မိန့်ကြားခဲ့သူမှာ လယ်တီဆရာတော်ဘုရားကြီးသက်တော်ထင်ရှားရှိတော်မူစဉ်အခါက ဆရာတော်ဘုရားကြီးထံတော်ပါးချဉ်းကပ်၍ ဝတ်ကြီးဝတ်ငယ်ပြုစုနေခဲ့ဖူးသူ ရေစကြိုမြို့ အနောက်ဘက် (၁၅)မိုင်အကွာ ရွာငယ်ရွာ*၁သား ဘုန်းတော်ကြီးဦးနု(ဦးပညာသီဟ)*၂ ဆိုသောပုဂ္ဂိုလ်ပင်ဖြစ်သည်။ ထိုစဉ်အခါက ဦးနု၏ပရိသတ်အင်ခွင်၌ မိန့်ကြားခဲ့ပုံတို့ကို ဦးနု၏အဆက်အနွယ်ဖြစ်သော ရန်ကုန်မြို့၊ ရွှေတိဂုံဘုရားလမ်းရှိ ကျားကူးကျောင်းတိုက်ဘုန်းကြီးဦးစက္ကိန္ဒ မိန့်ကြားသည့်အတိုင်း လယ်တီဂန္ထဝင်ကျော်များကျမ်း၌ ဖော်ပြထားသည်မှာ–

---

*၁ ယခု အောင်နန်းရွာဟုပြောင်းလဲခေါ်ဝေါ်ထားသည်။

*၂ ဦးပညာသီဟကို ရေစကြိုမြို့နယ် ခွေးမြှုပ်ရွာသား–ဟုလည်းအမှတ်အသားရှိပါသည်။ ဦးပညာသီဟသည် လယ်တီဆရာတော်ဘုရားကြီးထံပဋိပတ်နည်းခံပြီး မုံရွာမြို့အရှေ့ဘက် ကျောက္ကာတောင်ရွာ၊ လက်ပတောင်းတောင်–စသည်တို့၌ တစ်ကိုယ်တည်းတရားအားထုတ်ပြီးနေခဲ့ကြောင်း ကျားကူးဘုန်းကြီး ဦးစက္ကိန္ဒက (၃၀၊ ၁၂၊ ၈၆)နေ့က မိန့်ကြားပါသည်။

'ခဏမျှငြိမ်သက်နေကြစဉ် ပရိသတ်ကြီးထဲမှ ဘုန်းကြီးဦးနုသည် ဖြုန်းခနဲ မတ်တတ်ရပ်လိုက်သဖြင့် အားလုံးက ၎င်းအား စူးစိုက်ကြည့်ရှုနေကြသည်။ ထိုစဉ် 'ဒီကိစ္စနှင့်ပတ်သက်၍ အပြစ်မရှိသည့်သူကို အပြစ်ယူလို့ ဖြစ်နိုင်ပါ့မလား၊ ဦးလန်းနှင့် ဦးထွန်းလှိုင်ဆိုတဲ့ ဒကာကြီးတွေမှာ အပြစ်မရှိသဖြင့် အရေးယူရန်မသင့်ဘူး၊ တကယ် လုပ်သူကိုသာအရေးယူအပြစ်ပေးသင့်တယ်'ဟုဘုန်းကြီးဦးနုကပြောသည်။

'လက်သယ် အစစ်ကိုသိလျှင် ထုတ်ဖော်မိန့်ကြားပါ၊ မပေါ်လျှင်တော့ ဦးလန်းနှင့် ဦးထွန်းလှိုင်တို့ကို အရေးယူအပြစ်ပေးရပါမည်'ဟု အရေးပိုင်က ပြောကြားသည်။

'ကဲ ဒါဖြင့် လက်သယ်အစစ်ဆိုတာ ကျုပ်ပဲ'ဟု ဘုန်းကြီးဦးနုက ရဲရင့် တင်းမာစွာ ပြန်ပြောသည်။ ၎င်း၏ပြောကြားချက်ကြောင့် ဆရာတော်ဦးဉေယျနှင့် တကွ အားလုံးအံ့အားသင့်သွားကြသည်။

ဆရာတော်ဦးဉေယျမှာ ဒေါသကိုမချုပ်တီး နိုင်တော့သဖြင့် 'ကိုယ်တော် ဘယ့်နှယ်လုပ်တာလဲ၊ ဘယ်သူမှမပြောဘဲ ဘာဖြစ်လို့ မီးသင်္ဂြိုဟ်ပစ်ရသလဲ'ဟု မေးသည်။

'ဆရာတော်ကြီးက ငါပျံတော်မူလို့ ၇–ရက်ပြည့်လျှင် မီးသင်္ဂြိုဟ်၊ ဘယ်သူ့ကိုမှ မတိုင်ပင်နှင့်၊ မင်းတစ်ဦးတည်းလုပ်–ဟု မှာကြားခဲ့၍ လုပ်လိုက်ရတာပဲ။ ၇–ရက် ပြည့်တဲ့နေ့ကတည်းက လုပ်မလို့ကြံစည်သေးတယ်၊ မအောင်မြင်တာနဲ့ နောက်မှ လုပ်ရတာပဲ'ဟု ဘုန်းကြီးဦးနုက ဖြေကြားသည်။

'မီးသင်္ဂြိုဟ်ရာတွင် ကိုယ်တော်နှင့်အတူမည်သူတွေပါသေးသလဲ'ဟု အရေးပိုင်က လျှောက်ကြားမေးမြန်းရာ 'ဘယ်သူမှမပါဘူး၊ မိမိတစ်ဦးတည်း သမ္မာဒေဝနတ်များ အကူအညီနှင့်လုပ်လိုက်တာပဲ' ဟုဖြေသည်။

'ကိုယ်တော် ဘယ်လိုလုပ်သလဲ၊ လုပ်တဲ့အချိန်က ဘာဖြစ်သလဲ'ဟု ထပ်မံ လျှောက်ထားမေးမြန်းရာ 'ကျေးဇူးရှင်ဆရာတော်ဘုရားကြီး အလိုဆန္ဒအတိုင်းပြည့်ဝ စေရန် သမ္မာဒေဝနတ်ကောင်းနတ်မြတ်များ ကူညီကြပါလို့ ညဥ့်တစ်နာရီလောက်မှာ ဆုတောင်းပြီး ဂူတံခါးတည့်တည့်မှ ပိတ်ထားသောအင်္ဂတေအုတ်ကို တူရွင်းဖြင့် ထိုးလိုက်သည်။ သို့ထိုးလိုက်သည်နှင့် တစ်ပြိုင်နက် မြေလျှောင်လှုပ်၍ အုတ်များပြိုကျ တံခါးပွင့်သွားသည်။ ထိုစဉ် နေ့ခင်းတွင် မီးသင်္ဂြိုဟ်ရန် ဂူဘေးတွင်ပုံထားသော နံ့သာထင်းများဖြင့် ပလ္လင်ပေါ်မှာပင် ကျေးဇူးရှင်ဆရာတော်ဘုရားကြီး၏ရုပ်ကလာပ်ကို မီးသင်္ဂြိုဟ်ခြင်းအမှုကို ပြုလုပ်ပါသည်။ မီးစတင်ချိန်တွင် မြေငလျှင်တစ်ကြိမ်၊ ပြာကျချိန်တွင် မြေငလျှင်တစ်ကြိမ် သုံးကြိမ်တိုင်လှုပ်ပါသည်။ ဒီကိစ္စကို ထုတ်ဖော်မပြရ သေးလို့ ဘုန်းကြီးအခြားသို့ မသွားသေးခြင်းဖြစ်သည်။ ယခုလက်သယ်ပေါ်ပြီဖြစ်၍ အပြစ်ပေးလိုက ဘုန်းကြီးကိုပဲပေးပါ' ဟု ဘုန်းကြီးဦးနုကပြောကြားသည်။

ထိုအခါတွင် 'ငါ့အားအပြစ်မပေးလိုကြောင်းပြောကြားသည်နှင့်တစ်ပြိုင်နက် သက်နီး ၃–ထည်နှင့် သပိတ်တစ်လုံးကိုလွယ်ပြီး ကြွသွားတော်မူသည်မှာ ယခုတိုင် ဘယ်နေရာဘယ်ဌာနသို့ ရောက်ရှိနေကြောင်းကိုမသိ' ဟု ဆရာတော်ဦးဥေယျက ရှင်းပြတော်မူ၏။*၁

ကျေးဖူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် ရှေးရှေးအခါ မိမိဘဝနတ်ထံစံလွန်တော်မူလျှင် အသုံးပြုရန် မှန်စီရွှေချခေါင်းနှင့် ထိုခေါင်းထားရှိရန် ဂူပြာသာဒ် စသည်ကို ကျောင်းဒကာကြီးဦးကြယ်လှူဒါန်း၍ ရေစက်ချစဉ်က အနီးနေတပည့်တို့အား နောင်အခါမိမိစံလွန်လျှင် အင်္ဂါရပနစသည် မပြုလုပ်ကြဘဲ ဤခေါင်းတွင်းသွင်း၍ ထိုပြာသာဒ်အတွင်းထည့်နှံထားကြဟု မှာကြားတော်မူခဲ့ပြီးဖြစ်ပါသည်။ ဆရာတော်ဘုရားကြီးစံလွန်တော်မူသောအခါ ကြွင်းကျန်ရစ်သော ရုပ်ကလာပ်ကို အင်္ဂါရပနပူဇော်ရန်စီစဉ်ခဲ့ကြသော်လည်း ဆရာတော်ဘုရားကြီး၏ မူလဆန္ဒတော်ရှိခဲ့သည့်အတိုင်း အင်္ဂါရပနပူဇော်ခွင့်မရခဲ့ကြပေ။

သို့သော် ဆရာတော်ဘုရားကြီးသည် မိမိစံလွန်တော်အခါ ကာလ၌ တစ်ဦးတစ်ယောက် တစ်ဖွဲ့တစ်စုက အင်္ဂါရပနမဟုတ်ဘဲ ဂူသွင်းသင်္ဂြိုဟ်ရန်အတွက် ကြိုးပမ်းပါလျှင်လည်း တစ်မြို့နှင့် တစ်မြို့ တပည့်တစ်စုနှင့်တစ်စု အကျယ်ကျယ်မငြိမ်းဖွယ်ဖြစ်အံ့သော အဓိကရုဏ်းကို အလိုတော် မရှိသည့်အားလျော်စွာ ဆရာတော်ဘုရားကြီးသည် မည်သည့်ပုဂ္ဂိုလ်နှင့်မျှအကြောင်းမစပ်စေဘဲ ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်သည်သူ့အလိုလိုသာလျှင် တေဇောဓာတ်လောင်ကျွမ်း စေခဲ့ခြင်းဟူသော နောက်ဆုံးအဓိဋ္ဌာန်ဆန္ဒတော်ထားရှိပြန်ရာ၊ ထိုဆန္ဒတော်အတိုင်း သာသနာ စောင့် နယ်ပယ်စောင့်ဆိုင်ရာ နတ်များအပေါင်းကပါဝင်ကူညီကြ၍ ဆရာတော်ကြီး၏ ဆန္ဒတော် ပြည့်ဝစေခြင်းငှာ ဖြည့်ဆည်းပေးကြခြင်းဖြစ်သည်ဟူ၍သာ မှတ်ယူရန်ရှိပါတော့သည်။

*၁ လယ်တီဦးလုပိုင်၏ လယ်တီဂန္ထဝင်ကျော်များ။ (စာမျက်နှာ–၂၄၇၊ ၂၄၈)။

# လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်

## [ဒသမပိုင်း]

## မုံရွာမြို့ လယ်တီကျောက်စာပြတိုက်ကြီး

**ဓမ္မဘဏ္ဍာမဟာလယ်တီကျောက်စာ**

ကျေးဖူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် ပျဉ်းမနားမြို့၌ သက္ကရာဇ် ၁၂၈၅–ခုနှစ်၊ ပထမဝါဆိုလပြည့်နေ့တွင် ဘဝနတ်နန်း ပြောင်းကြွစံမြန်းတော်မူခဲ့ပြီးလျှင် ထိုနှစ်တပေါင်းလအတွင်း ပျဉ်းမနားမြို့မှာပင် တေဇောဓာတ်လောင်ကျွမ်းကာ အန္တိမဈာပနကိစ္စပြီးမြောက်ခဲ့ပါသည်။

လယ်တီဆရာတော်ဘုရားကြီး မူလဘူတသာသနာပြုရာ မြို့မုံရွာဌာနအနေဖြင့် မိမိတို့ကျေးဖူးရှင်ကြီးအတွက် ထိုက်ထိုက်တန်တန်ပျူပျူငှာငှာ ဆောင်ရွက်စရာဟူ၍ ဤလယ်တီမဟာကျောက်စာပြတိုက်ကြီးကို သက္ကရာဇ် ၁၂၈၆ (အေဒီ ၁၉၂၄) ခုနှစ်မှစတင်၍ ဖန်တီးကြိုးပမ်းပြုစုခဲ့ကြရာ ယခုအခါ သာသနာ့သမိုင်းဝင် ထာဝရမော်ကွန်းတင်ရသည့် ဓမ္မဘဏ္ဍာမဟာလယ်တီကျောက်စာတိုက်ကြီးအဖြစ်သို့ ရောက်ရှိနေခဲ့ပြီဖြစ်ပါသည်။

**ကျောက်စာရေးထိုးမှုအစဉ်အလာ**

မြန်မာနိုင်ငံ၌ ကျောက်စာထိုးမှုအစဉ်အလာသည် အေဒီ နှစ်‚သုံးရာစုပျူခေတ် သရေခေတ္တရာယဉ်ကျေးမှုကာလမှအစပြု၍[*၁] ခေတ်အဆက်ဆက်ကျောက်စာရေးထိုးမှုကိုပြုလုပ်ခဲ့ကြပါသည်။ ပုဂံခေတ်နှစ်ပေါင်း ၃၀၀–အတွင်း၌ ကျောက်စာခေတ်ဟုဆိုရလောက်အောင် ကျောက်စာရေးထိုးမှုအစဉ်အလာ ထွန်းတောက်ခဲ့သော်လည်း[*၂] ပုဂံခေတ်၌ သာသနိကဆိုင်ရာ အလှူအတန်း ကောင်းမှုမှတ်တမ်းတို့ကသာ များပြားကြောင်းတွေ့ရပြီး၊ စာပေတစ်ရပ်ရပ်ကို မော်ကွန်းတင်၍ ကျောက်စာရေးထိုးသောအလေ့ကိုကား ကျကျနနမတွေ့ခဲ့ရပေ။ သို့ရာတွင် ကျစ္စာမင်း၏အမိန့်တော်ပြန်တမ်းကို တိုင်းသူပြည်သားတို့သိရှိစေရန် ကျောက်စာမှုပွားများစွာရေးထိုးမှုမျိုးကိုကား တွေ့ရသည်။[*၃]

---

*၁ သရေခေတ္တရာ မော်ဇာရွာပိုးခင်းကြီးကုန်းမှရရှိသော အဘိဓမ္မာပါဠိတော်ကောက်နုတ်ချက် ပါဠိတော်ကျောက်စာချပ်ကိုရည်ရွယ်လိုပါသည်။ ဦးကို၏ မြန်မာပြည်ပါဠိစာပေခေတ်ဦး (စာတန်း)။ စာပေနှင့်လူမှုရေးသိပ္ပံဂျာနယ်၊ အတွဲ–၁၊ အမှတ်–၁။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၂၂)

*၂ ဒေါက်တာသန်းထွန်း၏ ကျောက်စာ(ဆောင်းပါး)။ အစောဆုံးအကွာရာတင် တိုင်းရင်းမြန်မာမှတ်တမ်းများ။ အမေ့အပြုံးစာပေ၊ ရန်ကုန်မြို့။ ၂၀၀၇–ခုနှစ်။ (စာမျက်နှာ–၁)

*၃ ကျစ္စာမင်းသည် အိမ်ခြေငါးအိမ်ရှိသည့်ရွာတိုင်း၌ မိမိ၏အမိန့်တော်ပြန်တမ်းကျောက်စာကို စိုက်ထူထားစေသည်ဟုဆိုပါသည်။ ပါမောက္ခဦးမောင်၏ ပုဂံကျောက်စာလက်ရွေးစင်၊ ပထမအုပ်။ ပညာနန္ဒပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၈–ခုနှစ်။ (စာမျက်နှာ–၅)

ဤနေရာ၌ စာပေတစ်ရပ်ရပ်ကိုကျောက်စာရေးထိုးမှု–ဟုဆိုရာတွင် ဗုဒ္ဓဘာသာဝင်မြန်မာလူမျိုးတို့အဖို့ မိမိတို့အထွတ်အမြတ်ထားရာ ဗုဒ္ဓပါဝစနခေါ် မြတ်ဗုဒ္ဓဟောကြားအပ်သော တရားဒေသနာ ပိဋကတ်ပါဠိတော်တို့ကို ကျောက်စာထိုးသောအလေ့မျိုးကိုဆိုလိုပြီး၊ ထိုအလေ့သည် ကုန်းဘောင်းခေတ် မင်းတုန်းမင်းလက်ထက်၌ ထူးခြားထင်ရှားစွာ ဖြစ်ပေါ်လာခဲ့ပါသည်။

မင်းတုန်းမင်းကြီးသည် သာသနာတော် ကမ္ဘာတည်သရွေ့တည်တံ့စေရန် ရည်သန်လျက် အေဒီ ၁၈၆၀–ပြည့်နှစ်တွင် ပိဋကတ်သုံးပုံပါဠိတော်ကျောက်စာချပ်ရေ (၇၂၉)ချပ်ကို ထွင်းထုပူဇော်ခဲ့ပါသည်။*၁ မင်းတုန်းမင်းလက်ထက်နောက် အေဒီ ၁၉၀၇–ခုနှစ်တွင် ရန်ကုန်တိုင်း သဃ်န်းကျွန်းမြို့နယ် ကျိုက္ကစံဘုရားအနီး၌ ဝိနည်းပိဋကဆိုင်ရာပါဠိတော်ကျောက်စာ(၉၅)ချပ်ကို ရေးထိုးပူဇော်ထားရှိခဲ့ပါသည်။ အေဒီ ၁၉၁၂–ခုနှစ်တွင် ရေနံချောင်းမြို့၌ တွင်းစားကြီးဦးသာကံ မိသားစုတို့က ဝိနည်းပိဋကဆိုင်ရာ ပါဠိတော် ကျောက်စာ(၁၁၄)ချပ်ကို ရေးထိုးပူဇော်ထားရှိခဲ့ပါသည်။ အေဒီ ၁၉၁၃–ခုနှစ်တွင် မန္တလေးမြို့ မန္တလေးတောင်တော် စန္ဒာမုနိဘုရားဝင်းအတွင်း ရသေ့ကြီးဦးခန္တီကြီးမှူး၍ အဋ္ဌကထာနှင့်ဋီကာ ကျောက်စာချပ် (၁၇၇၄)ချပ်တို့ကို ရေးထိုးစိုက်ထူပူဇော်ထားရှိခဲ့ပါသည်။ အေဒီ ၁၉၁၅–ခုနှစ်တွင် မိတ္ထီလာမြို့ ရွှေမြင်မိဘုရားဝင်းအတွင်း အဋ္ဌကထာကျောက်စာချပ်(၅၉၇)ချပ်တို့ကို စိုက်ထူပူဇော်ထားရှိပါသည်။ အေဒီ ၁၉၁၇–ခုနှစ်တွင် ဓနုဖြူမြို့ ပြည်လုံးချမ်းသာဘုရားကြီးဝင်းအတွင်း၌လည်း ပိဋကတ်သုံးပုံပါဠိတော်ကျောက်စာ (၃၉၉)ချပ်တို့ကို စိုက်ထူပူဇော်ထားရှိခဲ့ပါသည်။ အေဒီ ၁၉၂၁–ခုနှစ်တွင် သထုံမြို့ ရွှေစာရံဘုရားဝင်းအတွင်း၌ ရသေ့ကြီးဦးခန္တီ ကမကထပြု၍ ပိဋကတ်သုံးပုံပါဠိတော်ကျောက်စာ (၅၈၅) ချပ်တို့ကို ရေးထိုးစိုက်ထူထားရှိခဲ့ပါသည်။ အေဒီ ၁၉၂၄–ခုနှစ်တွင် အဖျောက်မြို့ လောကမာရ်အောင်ဘုရားဝင်းအတွင်း ပိဋကတ်သုံးပုံ ပါဠိတော်ကျောက်စာ (၇၂၀)ချပ်တို့ကို ရေးထိုးကာ စိုက်ထူပူဇော်ထားရှိခဲ့ပါသည်။*၂ ဤသို့လျှင် ပိဋကတ်သုံးပုံပါဠိတော်နှင့် အဋ္ဌကထာ, ဋီကာစသော ကျမ်းဂန်စာပေတို့ကို ကျောက်ထက်အက္ခရာတင်သောအလေ့သည် အထက်အောက် မြန်မာနိုင်ငံ ဒေသအသီးသီး၌ ပျံ့နှံ့တည်ထွန်းနေပါသဖြင့် လယ်တီဆရာတော်ဘုရားကြီးဘဝနတ်ကျောင်းပြောင်းစံသောကာလတွင် တပည့်အပေါင်းတို့က မိမိတို့ဆရာတော်ဘုရားကြီး ပြုစုရေးသားတော်မူခဲ့သည့်စာပေကျမ်းဂန်အရပ်ရပ်တို့ကို ရာသက်ပန်တည်တံ့စေခြင်းအလို့ငှာ ကျောက်ထက်အက္ခရာတင်အံ့ဟု စိတ်ရည်သန်ခဲ့ကြခြင်းဖြစ်ပါသည်။ ဤနိုင်ငံ၌ ဘုရားဟောပါဠိတော်နှင့်ဆိုင်ရာ အဋ္ဌကထာ, ဋီကာတို့မှတစ်ပါး ရဟန်းတော်တစ်ပါးပြုစုသောစာပေကို ကျောက်ထက်အက္ခရာတင်ခြင်းအလေ့သည် လယ်တီဆရာတော်ဘုရားကြီး၏စာပေတို့ကို ကျောက်ထက်အက္ခရာတင်ခြင်းမှာ ရှေးဦးအစ ပထမဖြစ်ပါသည်။*၃

---

*၁ ဤပါဠိတော်ကျောက်စာချပ်တို့ကို မန္တလေးမြို့ မန္တလေးတောင်ခြေ မဟာလောကမာရဇိန်ကုသိုလ်တော်ဘုရားဝင်းအတွင်း၌ စိုက်ထူထားပါသည်။ လူထုဒေါ်အမာ၏ ကမ္ဘာ့အကြီးဆုံးစာအုပ်ကြီး(စာတန်း)။ လူ့မိတ်ဆွေစာအုပ်။ ၁၉၇၃–ခုနှစ်။ (စာမျက်နှာ ၃၆–၆၅)။

*၂ ဦးအောင်သူ၏ မြန်မာနိုင်ငံ ကျောက်ထက်အက္ခရာတင် ပိဋကတ်သုံးပုံပါဠိတော်, အဋ္ဌကထာနှင့်ဋီကာတို့၏ မာတိကာများ။ ၁၉၉၉–ခုနှစ်။ (စာမျက်နှာ ၄၊ ၁၆၊ ၁၉၊ ၃၀၊ ၄၈၊ ၅၅၊ ၆၁၊ ၇၀)။

*၃ နောင်အခါ ဘုတလင်မြို့ ကြောင်ပန်းဆရာတော်၊ အမရပူရမြို့ မိုးကုတ်ဆရာတော်ဘုရားကြီးနှင့် ရန်ကုန်မြို့ မဟာစည်ဆရာတော်ဘုရားကြီးတို့၏ကျမ်းစာတို့ကိုလည်း ကျောက်စာရေးထိုးခဲ့ကြပါသည်။

**လယ်တီကျောက်စာဖြစ်မြောက်ရန်အဆိုပြုချက်များ**

လယ်တီဆရာတော်ဘုရားကြီး ဘဝနတ်နန်းစံမြန်းပြီးစအခါ သက္ကရာဇ် ၁၂၈၅–ခုနှစ်၊ ပထမဝါဆိုလဆုတ် ၄–ရက်နေ့ (အေဒီ ၁၊ ဇူလိုင်လ၊ ၁၉၂၃–ခုနှစ်) မုံရွာမြို့၌စည်းဝေးသော ပထမအကြိမ်မြောက် ဈာပနကော်မတီအစည်းအဝေးတွင် 'ဆရာတော်ဘုရားကြီး စီရင်ရေးသား တော်မူသော အင်္ဂလိပ်ဘာသာပြန်ဆိုပြီး, မပြန်ဆိုရသေးသည့် ဒီပနီကျမ်းစာအုပ်များကို ကျောက်ထက်အက္ခရာတင်ရန်' အဆိုပြုသဖြင့် အများသဘောတူဆုံးဖြတ်ထားပြီးဖြစ်ပါသည်။*[၁]

သက္ကရာဇ် ၁၂၈၅–ခုနှစ်၊ ဝါခေါင်လဆန်း ၈–ရက် (အေဒီ ၁၉၊ ဩဂုတ်လ၊ ၁၉၂၃–ခုနှစ်) မုံရွာမြို့၌ ဒုတိယအကြိမ်ကျင်းပသော နိုင်ငံလုံးဆိုင်ရာဈာပနကော်မတီအစည်းအဝေးကြီးတွင် လည်း 'ဤမုံရွာမြို့၊ လယ်တီတိုက်ကြီးအတွင်း၌ ရဟန်းရှင်လူအပေါင်းတို့၏ လောကီ လောကုတ္တရာနှစ်ဖြာစီးပွားအလို့ငှာ ရေးသားပြုစုထားတော်မူခဲ့သောကျမ်းစာအရပ်ရပ်အလုံးစုံ တို့ကို ကျောက်ထက်အက္ခရာတင်၍ ကျောက်ချပ်တို့ဖြင့် ထက်ဝန်းကျင်ခြံရံအပ်သော ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီး၏ ရုပ်လုံးပုံတော်နှင့်တကွ ပိဋကတ်တိုက်ကြီးကို တည်ထား ဆောက်လုပ်ရန်' ဟူသောအချက်ကို ထပ်မံ၍ထည့်သွင်း ဆုံးဖြတ်ခဲ့ကြပြန်ပါသည်။*[၂]

ဤသို့ နှစ်ကြိမ်တိုင်တိုင် မုံရွာမြို့ရှိ ဆရာတော်ကြီး၏တပည့်ရှင်လူပရိသတ်တို့က မိမိတို့ ကျေးဇူးရှင်ဆရာတော်ဘုရားကြီး၏ကျမ်းစာတို့ကို ကျောက်ထက်အက္ခရာတင်ရန် သဘောတူ ဆုံးဖြတ်ပြီးဖြစ်သည့်အတွက် ကျေးဇူးရှင်ဆရာတော်ဘုရားကြီး၏ အန္တိမဈာပနပူဇော်ပွဲကိစ္စများ ပြီးမြောက်သော သက္ကရာဇ် ၁၂၈၆–ခုနှစ်၊ သီတင်းကျွတ်လဆန်း (၅) ရက် (အေဒီ ၂၊ အောက်တိုဘာလ၊ ၁၉၂၄– ခုနှစ်)တွင် မုံရွာမြို့၊ လယ်တီတိုက်အတွင်း သံဃာတော်အပါး ၃၀၀၊ လူပုဂ္ဂိုလ် ၂၀၀၀–ကျော်တို့ စုဝေးမိကြပြီးလျှင် လယ်တီကျောက်စာတိုက်ကြီး တည်ထောင်ရန် အရေးကို ဆွေးနွေးခဲ့ကြပါသည်။ ထိုအစည်းအဝေးကြီး၌ 'ဒီပနီကျမ်းစာများကို ဤလယ်တီတိုက် အတွင်း၌ သေလက္ခရာရှူ ကျနသေသပ် ပုဒ်ပါဠ်အက္ခရာတည်းဖြတ်ခါဖြင့် ကောင်းစွာရေးသား တည်ထားကိုးကွယ်ထိုက်ကြောင်း' အများသဘောတူဆုံးဖြတ်ခဲ့ကြပြီးလျှင် ဒီပနီကျောက်စာများ အကောင်အထည်ဖော်ရန်အတွက် ထိုနေ့မှာပင် 'လယ်တီကျောက်စာအသင်းကြီး' ကိုလည်း ဖွဲ့စည်းတည်ထောင်ခဲ့ကြပါသည်။*[၃]

**လယ်တီကျောက်စာအသင်း**

ဤကျောက်စာအသင်း၏ဥက္ကဋ္ဌမှာ ဒုတိယလယ်တီဆရာတော်ဦးဉာဏောဘာသ ဖြစ်ပါ သည်။ အကျိုးဆောင်မှာ လယ်တီတိုက် လယ်ပေါ်ကျောင်းဘုန်းကြီးဦးကဝိ ဖြစ်ပါသည်။ ကျောက်စာပြင်ဆင်ရေးဌာန၏အကျိုးဆောင်မှာ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး ဖြစ်သည်။ ငွေထိန်းလူကြီးမှာ မုံရွာမြို့၊ ကုန်သည်ကြီး ဦးလူနီ၊ စက္ကရီတေရီများမှာ မုံရွာမြို့၊ မြူနီစီပါယ်

---

*[၁] လယ်တီဆရာတော်ဘုရားကြီး ပျံလွန်တော်မူသောကိစ္စ သာခုကိစ္စနသဘင်အတွက် နိုင်ငံလုံးဆိုင်ရာ အစည်းအဝေး ကြီးက ဆုံးဖြတ်စည်းဝေးပြဋ္ဌာန်းချက်အရပ်ရပ်များ။ (စာမျက်နှာ–၂၅)။

*[၂] ယင်း။ (စာမျက်နှာ–၁၆)။

*[၃] ဤအစည်းအဝေးမှတ်တမ်းကို သက္ကရာဇ် ၁၃၁၆–ခု၊ ပြာသိုလဆန်း ၈–ရက် (၁၊ ၁၊ ၁၉၅၅) နေ့ထုတ် သင်္ဂါယနာစာစောင် တွင် ပြန်လည်ဖော်ပြထားပါသည်။



မုံရွာမြို့၊လယ်တီတောရအတွင်းတည်ဆောက်မည့်ကျောက်စာတိုက်မူလပုံစံ
(ဤပုံစံကို ကျိုက်ထိုအရှင်နန္ဒမာလာရေးဆွဲသည်။)



မုံရွာမြို့၊လယ်တီကျောက်စာဟိုက်ကြီးတည်ဆောက်နေစဉ်

စာရေးကြီးဦးမောင်မောင်နှင့် ပိုးကုန်သည်ကြီးဦးဘသွင်၊ စာရင်းစစ်လူကြီးများမှာ ဦးကိုကြီး၊ ဦးမြစ်၊ ဦးဘိုးတုတ်–တို့ ဖြစ်ကြပါသည်။

လယ်တီကျောက်စာအသင်းကြီးအနေဖြင့် ကျောက်စာလုပ်ငန်းအရပ်ရပ်အတွက် ခန့်မှန်း ငွေကျပ် ၂–သိန်းခန့်လိုအပ်ကြောင်း တွက်ချက်မှန်းဆထားကြပါသည်။ သို့ပါ၍ အလှူငွေရရှိရန် ဓမ္မကထိက ဆရာတော်ငါးပါးတို့ကို ခန့်အပ်ခဲ့ကြပါသည်။ ယင်းဓမ္မကထိကဆရာတော်ငါးပါးမှာ (၁) ဝိပဿနာသာသနာပြု ကြောင်ပန်းဆရာတော်ဦးကုဏ္ဍက၊ (၂) စစ်ကိုင်းတောင်ရိုး ရန်ကုန်ချောင် ဆရာတော်ဦးဓမ္မစာရီ၊ (၃) နိုင်ငံခြားသာသနာပြုအသင်းကိုယ်စားလှယ် လယ်တီဦးဝဏ္ဏိတ၊ (၄) စစ်ကိုင်းတောင်ရိုး၊ ဖမ္မပတိချောင်ဆရာတော်ဦးပဒုမနှင့် (၅) မုံရွာမြို့ လယ်တီတိုက် ဒီပဲယင်း ဦးခေမိန္ဒ*၁–တို့ဖြစ်ကြပါသည်။*၂

ဤလယ်တီကျောက်စာအသင်းကြီးဖွဲ့စည်းတည်ထောင်သောနေ့မှာပင် အလှူငွေကျပ် တစ်သောင်းငါးထောင်ခုနစ်ရာ (၁၅၇၀၀–ကျပ်)ကို လက်ခံရရှိခဲ့ပါသည်။ ထို့ပြင် ကျောက်စာ အသင်းဖွဲ့စည်းသည့် ထိုနှစ် သီတင်းကျွတ်တစ်လအတွင်း မုံရွာခရိုင်အတွင်းမှ ရှင်လူအပေါင်းတို့ ထည့်ဝင်သောငွေပေါင်းမှာ ကျပ်လေးသောင်း(၄၀၀၀၀–ကျပ်)ဖြစ်ပါသည်။ ဓမ္မကထိကကြောင်ပန်း ဆရာတော်ကြီးထံမှလည်း ကျောက်စာအသင်းဖွဲ့စည်းပြီး ရက်မကြာမီမှာပင် အလှူငွေနှစ်သောင်း ကောက်ခံရရှိ၍ မုံရွာလယ်တီတိုက်သို့ပို့ပေးနိုင်ခဲ့ပါသည်။ ထို သက္ကရာဇ် ၁၂၈၆–ခုနှစ်မကုန်မီမှာပင် လယ်တီကျောက်စာတိုက်ကြီးဖြစ်မြောက်ရေးအတွက် လိုအပ်နေသောအလှူတော်ငွေကျပ်နှစ်သိန်း ကျော်ကို လက်ခံရရှိခဲ့ကြပါသည်။

**လယ်တီကျောက်စာတိုက်ပုံစံနှင့် ခန့်မှန်းချက်များ**

လယ်တီဆရာတော်ဘုရားကြီး၏ အထိမ်းအမှတ်အဖြစ်ဆောက်လုပ်ကြမည့် လယ်တီ ကျောက်စာပြတိုက်ကြီး၏ပုံစံကို ကျိုက်ထိုမြို့ ဘုရားသုံးဆူဆရာတော်ဦးနန္ဒမာလာက ပုံစံထုတ် ရေးဆွဲတော်မူပါသည်။ ဦးနန္ဒမာလာရေးဆွဲပေးခဲ့သော မူလကျောက်စာပြတိုက်တွင် ရွှေဆင်ဝင် ပြာသာဒ်သည် စတုရန်း ၁၆–ပေရှိပါသည်။ ကျောက်စာများထားရှိမည့်ပြတိုက်အဆောက်အအုံမှာ အလျားပေ–၈၀၊ အနံပေ–၄၀ ရှိသည်။ ထို့ပြင် ကျောက်စာတိုက်အတွင်း၌ အခန်းပေါင်း (၂၄)ခန်းရှိပြီး နံဘေးပတ်လည်တွင် အပြင်အခန်းပေါင်း(၃၀)လည်း ပါရှိကြောင်းသိရသည်။ ကုန်ကျစရိတ်အားဖြင့် ရွှေဆင်ဝင်ပြာသာဒ်တစ်ဆောင်တည်းကို တန်ဖိုးကျပ်ငါးထောင်(၅၀၀၀– ကျပ်)ဟုခန့်မှန်းပြီး ကျောက်စာပြတိုက်ဆောင်မကြီးမှာ ကျပ်သုံးသောင်းသုံးထောင့်နှစ်ရာ(၃၃၂၀၀– ကျပ်) ဟု မှန်းဆထားကြပါသည်။ ပတ်လည်အခန်းငယ် (၃၀) တွင် အခန်းငယ်တစ်ခန်းကို ကျပ်ခုနစ်ရာ (၇၀၀–ကျပ်)ကုန်ကျမည်ဟု ခန့်မှန်းထားပါသည်။*၃

---

*၁ ကျောက်စာအသင်း အလှူငွေကောက်ခံရန် မိုးကုတ်မြို့သို့ အကြိမ်ကြိမ်ကြွရောက်တော်မူသောကြောင့် ဒီပဲယင်း အရှင်ခေမိန္ဒကို နောင်အခါ မိုးကုတ်ဆရာတော်ဦးခေမိန္ဒ–ဟု ခေါ်တွင်ခဲ့ကြပါသည်။

*၂ လယ်တီကျောက်စာအသင်းကြီးနှိုးဆော်စာ။ ဒဂုန်မဂ္ဂဇင်း။ အမှတ်–၅၆။ ၁၉၂၅–ခုနှစ်၊ ဧပြီလ။ (စာမျက်နှာ ၁၆၃– ၁၆၆)။

*၃ ဒဂုန်မဂ္ဂဇင်း။ အမှတ်–၅၆။ ၁၉၂၅–ခုနှစ်၊ ဧပြီလ။ (စာမျက်နှာ ၁၆၃–၁၆၄)

လယ်တီကျောက်စာပြတိုက်ကြီးအတွင်းစိုက်ထူထားမည့်ကျောက်စာချပ်အတွက် ကျောက်စာတစ်ချပ်လျှင် တန်ဖိုးကျပ်နှစ်ရာ (၂၀၀–ကျပ်)ဖြစ်သည်။ ကျောက်စာသုံးချပ်ကို အုတ်ဂူသီးခြားတစ်ခုစီပြုလုပ်ပြီး အုတ်ဂူတစ်ဂူ၏တန်ဖိုးမှာ ကျပ်တစ်ထောင် (၁၀၀၀–ကျပ်) ဖြစ်သည်။*၁

ကျောက်စာလုပ်ငန်း

လယ်တီကျောက်စာပြတိုက်ကြီးကို သက္ကရာဇ် ၁၂၈၇–ခုနှစ်၊ နတ်တော်လဆန်း (၁၃) ရက် (အေဒီ ၁၇၊ ဒီဇင်ဘာလ၊ ၁၉၂၆–ခုနှစ်) လယ်တီဆရာတော်ဘုရားကြီး (၇၉) နှစ်ပြည့် ဝိဇာတမွေးနေ့မင်္ဂလာအခါတွင် ပန္နက်ချခဲ့ကြပါသည်။ ထိုသို့အုတ်မြစ်ပန္နက်ချစဉ် ဒီဇင်ဘာလ ဆောင်းတွင်းအခါကြီးဖြစ်သော်လည်း နှင်းမိုးတဖွဲဖွဲရွာခဲ့သည်။ လုပ်အားပေးလာကြသော ဉာဏ်ပရိသတ်အများကို ကောက်ညှင်းပေါင်း၊ ဗယာကြော်စသည်ဖြင့် ကျွေးမွေးကြောင်းသိရသည်။*၂

လယ်တီကျောက်စာတိုက်ကြီးကို ပန္နက်ရိုက်ပြီးသည်နှင့် ဒီပနီကျမ်းစာများ ကျောက်စာထွင်းထုရန်လုပ်ငန်းကို တစ်ဆက်တည်းဆောင်ရွက်ခဲ့ကြရပါသည်။ ထိုလုပ်ငန်းတွင် လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးနှင့် ဦးကဝိ၊ ဦးတိက္ခ၊ ဦးပုညနှင့် ဦးတေဇိန္ဒတို့ ပါဝင်ဆောင်ရွက်ကြပါသည်။ ကျောက်ထက်အက္ခရာတင်မည့်ဒီပနီကျမ်းစာများကို လယ်တီပဏ္ဍိတဦးမောင်ကြီးက ရှေးဦးပြင်ဆင်ပေးပါသည်။*၃ ဆရာဦးမောင်ကြီးပြင်ဆင်ပေးသည့် ဒီပနီကျမ်းစာကိုမှ အမြင့် ၄–ပေ၊ အလျား ၃–ပေခန့်ရှိသော ကျောက်စာမျက်နှာပေါ် နှစ်ဖက်စလုံးတွင် ရှေးဦးပထမ မင်ဖြင့်ကူးရေးကြရသည်။ ထိုမင်ဖြင့်ရေးပြီးသောစာတို့ကို အရှေ့လယ်တီဆရာတော်ဦးဝါယာမနှင့် ဦးကောဝိဒ(ပုပ္ပါးဦးကျော်ရင်) တို့က တာဝန်ယူ၍ မူလကျမ်းစာနှင့်တိုက်ဆိုင်ပြင်ဆင်ကြရသည်။

ဆက်လက်၍ မင်ရေးပြီးသောကျောက်စာချပ်များကို ထုထွင်းကြရသည်။ အက္ခရာအရွယ်မှာ အချင်းတစ်လက်မ၏ သုံးပုံတစ်ပုံခန့်မျှဖြစ်သည်။ ပြီးလျှင် ကျောက်စာကြပ်သူများက စာပြင်ကြသည်။ စာပြင်ရာ၌ အမှားတစ်စုံတစ်ရာတွေ့ရှိပါက ပြင်၍ရေးထိုးကြရသည်။ ပြင်ဖို့မလိုလျှင် ကျောက်ချော၍ပြီး ဆေးသွင်းကြရသည်။ ကျောက်စာထိပ်ပိုင်းတွင် ကောင်းမှုကုသိုလ်ရှင်၏ အမည်နှင့်နေရပ်စသည်တို့ကိုဖော်ပြထားပါသည်။

ကျောက်စာရေးထွင်းသောကျမ်းစာများ

လယ်တီကျောက်စာပြတိုက်ကြီးအတွင်းထားရှိရန် ရှေးဦးပထမရေးထွင်းကြသောကျမ်းမှာ ပရမတ္ထဒီပနီနှင့် နိရုတ္တိဒီပနီကျမ်းတို့ပင်ဖြစ်သည်။ ဆက်လက်၍ ဒီပနီ(၃၆)ကျမ်းရေးထွင်းရန် စီစဉ်ခဲ့ကြပါသည်။ သို့ပါသော် ကုသိုလ်ရှင်များစွာပေါ်ထွန်းလာသည့်အတွက် ဒီပနီ(၃၆)ကျမ်း

*၁ ဒဂုန်မဂ္ဂဇင်း၊ အမှတ်–၅၆။ ၁၉၂၅–ခုနှစ်၊ ဧပြီလ။ (စာမျက်နှာ–၁၆၄)။

*၂ မုံရွာမြို့ ဆရာသဲကြီးသမီး ဒေါ်တင်တင်(မုံရွာ)၏ပြောပြချက်ဖြစ်သည်။

*၃ ဆရာဦးမောင်ကြီး ကျောက်ထက်အက္ခရာတင်ရန် ပြင်ဆင်တည်းဖြတ်ပေးသောစာမူတို့ကို နောင်အခါ 'ကျောက်စာမူ' ဟူသော စာစဉ်အမည်တပ်၍ စာအုပ်အဖြစ်ပုံနှိပ်ပါသေးသည်။ ပမာအားဖြင့် စတုသစ္စဒီပနီကျမ်းကို ကျောက်စာမူတော်အဖြစ် ရန်ကုန်မြို့ အမျိုးသားစာပုံနှိပ်တိုက်က ရိုက်နှိပ်ထုတ်ဝေခဲ့ဖူးပါသည်။



တည်တောက်ဆဲလယ်တီကျောက်စာတိုက်ကြီးနှင့်လယ်တီတိုက်ဒကာဒကာမများ



ကျောက်စာမူတော်။

ကျေးဇူးရှင်

**လယ်တီဆရာတော်ဘုရားကြီး**

ရေးသားစီရင်တော်မူအပ်သော

**စတုသစ္စဒီပနီကျမ်း။**

လယ်တီ-ပဏ္ဍိတ၊ဆရာ-ဦးမောင်ကြီး။
ပြင်ဆင်ပုံနှိပ်သည်။

၁။ သားစာပုံနှိပ်တိုက်။
တ်-၄၇။ ၅၁-လမ်း၊
ရန်ကုန်မြို့။

ခဆိုး-၅-၀။

လယ်တီကျောက်စာမူတော်စာအုပ်

ဒ ဂုန် ဓါတ် ပုံ သ တင်း



မုံရွာမြို့—လယ်တီတိုက်ကြီးအတွင်းနှ

ကျေး ဇူး ရှင်
လယ်တီဆရာတော်ဘုရားကြီး၏ အထိမ်းအမှတ် ဆောက်လုပ်ထားသော
လယ်တီကျောက် စာ ပြတိုက်ကြီးပုံ

မုံရွာမြို့လယ်တီကျောက်စာတိုက်ကြီး

ကိုသာမက ကျန်ရှိနေသော ဒီပနီကျမ်းများစွာကိုလည်း ဆက်လက်ရေးထွင်းနိုင်ခဲ့ကြပါသည်။ အထူးသဖြင့် သက္ကရာဇ် ၁၂၈၇ (အေဒီ ၁၉၂၅–ခုနှစ်) နှင့် သက္ကရာဇ် ၁၂၉၈ (အေဒီ ၁၉၃၆–ခုနှစ်) အထိ (၁၁)နှစ်ကာလအတွင်း တိုင်းရေးပြည်ရေးအခြေအနေများ ကောင်းပြီး လယ်တီပဏ္ဍိတ ဆရာဦးမောင်ကြီးလည်း ကျန်းမာကောင်းမွန်သေးသဖြင့်[*၁] လယ်တီဒီပနီများ ကျောက်ထက်အက္ခရာတင်မှုလုပ်ငန်းကို တွင်ကျယ်စွာဆောင်ရွက်နိုင်ခဲ့ကြပါသည်။

သို့ဖြစ်၍ လယ်တီကျောက်စာတိုက်ကြီးအတွင်း ကျောက်ထက်အက္ခရာတင်ထွင်းထားသော ဒီပနီကျမ်းစာစုစုပေါင်း(၈၀)ကျော်ရှိခဲ့ကြောင်းဖော်ပြကြပါသည်။[*၂] အခြားမှတ်တမ်းတစ်စောင်၌ ဒီပနီ(၈၃)ကျမ်းရှိသည်–ဟု ဖော်ပြထားပါသည်။[*၃]

**ကျောက်စာတိုက်ကြီးပျက်စီးရပုံ**

သက္ကရာဇ် ၁၃၀၅–ခုနှစ်၊ နယုန်လ၊ (အေဒီ ၁၉၄၃–ခုနှစ်၊ ဇွန်လ) တွင် မြန်မာတစ်နိုင်ငံလုံးအဖို့ ခေတ်ဆိုးခေတ်ပျက်ဟုဆိုရမည့် ဂျပန်အပြေး အင်္ဂလိပ်ပြန်အဝင်ကာလတွင် မဟာမိတ်တို့၏ဗုံးဒဏ်ချက်ကြောင့် ဒီပနီကျမ်းပေါင်းရှစ်ဆယ်ကျော်တို့ကို ကျောက်ထက်အက္ခရာတင်ထားသည့် မုံရွာမြို့ သာသနာ့ဂုဏ်ဆောင် လယ်တီကျောက်စာပြတိုက်ကြီးသည် ရှုမကောင်းအောင်ပြိုကျပျက်စီးခဲ့ရပါသည်။[*၄] ထိုသို့ကြည့်ရှုမကောင်းအောင်ပျက်စီးခဲ့ရသော ခေတ်ပျက်စစ်ဘေးဒဏ်ခံ လယ်တီကျောက်စာတိုက်ကြီး၏မြင်ကွင်းကို စာရေးဆရာမကြီးဒေါ်ဒဂုန်ခင်ခင်လေးက သူရှုမြင်ခဲ့ရသည့်အတိုင်း ဤသို့သရုပ်ဖော်ရေးသားခဲ့ပါသည်။

> ‘မြန်မာနိုင်ငံ၌ ပြိုင်စံမပေါ် အကျော်ဇေယျ လယ်တီစာချတိုက်၊ လယ်တီစံကျောင်းတိုက်၊ လယ်တီကျောက်စာတိုက်တို့တည်ရှိရာ လယ်တီကျောင်းတိုက်ကြီးသည် စစ်ဘေးစစ်ဒဏ်ကြောင့် အလုံးစုံအကုန်အစင် မြင်မကောင်း ရှုမကောင်း ထောင်းထောင်းကျေလျက် ပျက်စီးခြင်းမလှ ပျက်စီးကုန်ကြရသည်။ လယ်တီစံကျောင်းတိုက်ကြီးနှင့် စကြံကျောင်းတော်ငယ်မှာ အုတ်ပုံပျက်တစ်ခုဖြစ်နေပြီး လယ်တီဆရာတော်ဘုရားကြီး ရေးသားစီရင်တော်မူခဲ့သမျှ စာပေကျမ်းဂန်များကို ကျောက်ပြားတွင် ကျောက်ထက်အက္ခရာတင်၍ ရာဇဝင်ပြောင်ပြောင်နှင့် ကမ္ဘာတည်အောင်

---

*၁ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးသည် သက္ကရာဇ် ၁၃၀၁–ခုနှစ်၊ ကဆုန်လဆန်း ၄–ရက် (အေဒီ ၂၁၊ ဧပြီလ၊ ၁၉၃၉–ခုနှစ်)တွင် ကွယ်လွန်ခဲ့ပါသည်။

*၂ လှသမိန်၏ လယ်တီကျောက်စာများ(ဆောင်းပါး)။ ယဉ်ကျေးမှုစာစောင်၊ အတွဲ–၁၊ အမှတ်–၄။ ၁၉၅၅–ခုနှစ်၊ ဩဂုတ်လ။ (စာမျက်နှာ–၁၇)။

*၃ (၁၊ ၁၊ ၁၉၅၅) နေ့ထုတ် သင်္ဂါယနာတင်စာစောင်။ (စာမျက်နှာ–၁၇)။

*၄ လယ်တီကျောက်စာတိုက်အပါအဝင် မဟာလယ်တီတစ်တိုက်လုံး ဗုံးကျခံရသောနေ့မှာ သက္ကရာဇ် ၁၃၀၅–ခုနှစ်၊ ပြာသိုလဆန်း (၁) ရက် (အေဒီ ၂၆၊ ဒီဇင်ဘာလ၊ ၁၉၄၃–ခုနှစ်)နေ့ဖြစ်ပါသည်။ မောင်ကြည်ရှင်၏ လယ်တီပဏ္ဍိတပေးစာများ (ဆောင်းပါး)။ လယ်တီပဏ္ဍိတ။ ၁၉၆၅–ခုနှစ်။ (စာမျက်နှာ–၁၀၈)။



ဒုတိယကမ္ဘာစစ်အတွင်းနှင့်
စစ်ပြီးစ
စစ်ဘေးဒဏ်ခံ
လယ်တီကျောက်စာတိုက်ကြီး၏
ရှုခင်း



အမိုးအကာကင်းမဲ့နေသော
လယ်တီကျောက်စာတိုက်ကြီးကို
ရင်နှင့်ဖွယ်တွေ့မြင်ရပုံ





စစ်ဘေးဒဏ်ကြောင့်ပျက်စီးခဲ့ရသော လယ်တီကျောက်စာတိုက်နှင့်မနောရမ္မစကြံကျောင်း

ပြုထားခဲ့သော ကျောက်စာတိုက်ကြီးမှာလည်း အမိုးဗလာ အကာနတ္ထိ ဒုက္ခိတ စာရင်းဝင်နေရှာသော ကျောက်စာချပ်တွေမှာလည်း အချို့က ထိုးထိုးထောင်ထောင် တောင်ရွှံ့မြောက်ယိုင် မနိုင်ရာကပြိုလဲ ကွဲတဲ့ကျောက်စာကကွဲ ကြေမွနေသည်။ ကျောက်စာကနည်း ကလေးတွေကလည်း တက်ဆော့ကြနှင့် ကျောက်စာတိုက်ပျက်ကြီးအား ကစားကွင်းသဖွယ် အသုံးပြုနေကြသည်ကို ဝမ်းနည်းဖွယ်ရာ တွေ့မြင်ခဲ့ရပါသည်။*[၁]

လယ်တီတိုက်သား ရွှေညာမောင် (ဦးချင်းစိန်)ကလည်း ပုံးဒဏ်ခံ လယ်တီတိုက်ကြီးနှင့်တကွ ကျောက်စာတိုက်ကြီး၏မြင်ကွင်းကို ဤသို့သရုပ်ဖော်ရေးသားခဲ့ပါသည်။

'ရှေ့နောက်ဝဲယာ အရပ်လေးမျက်နှာတွင် ဘယ်ကိုပင်ရှုလိုက်ရှုလိုက် မီးလောင်ငုတ်တိုနှင့် ပြာပုံများကိုသာ သွေးပျက်စရာမြင်ရသည်။ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ မနောရမ္မစကြံတိုက်ကျောင်းတော်သည်*[၂] အုတ်ရိုးသားလျှင် ထီးထီးကြီးကျန်နေသည်။ ကျောက်စာတိုက်ကြီးပေါ်တွင် ကျေးဇူးရှင်ဘုရားကြီး၏ ဒီပနီကျောက်ချပ်များသည် အပိုင်းပိုင်းကျိုးပဲ့ပြိုလဲလျက်ရှိသည်။ စကျင်ကျောက်တောင်ကြီး အက်ကွဲပြိုလဲကျနေသည်နှင့်ပင် တူလေ၏'–*[၃] ဟု ဖြစ်သည်။

ဤသို့စစ်ဘေးကြောင့် ကျောက်စာတိုက်ကြီးပျက်စီးရရာ ကျောက်စာတိုက်အဆောက်အအုံမှ ပြုတ်ကျကြွင်းကျန်သော သွပ်, ဒိုင်း စသောပစ္စည်းများကို နောင်အလိုရှိသော အသုံးပြုရန် ရည်ရွယ်ပြီး ခိုးသန်းရွာသို့ရွှေ့ပြောင်း၍ သိမ်းဆည်းထားရပါသည်။

**စစ်ပြီးခေတ်ကျောက်စာတိုက်ပြုပြင်ရေး**

ဒုတိယကမ္ဘာစစ်ကြီးပြီးစီးသည့်နောက် လယ်တီကျောက်စာတိုက်ကြီး ပြန်လည်ပြုပြင်ရန် ကျောက်စာအဖွဲ့အစည်းများကို အကြိမ်ကြိမ်ဖွဲ့စည်းခဲ့ပါသည်။ ပထမအကြိမ်မှာ စတုတ္ထလယ်တီဆရာတော် ဦးနန္ဒဝံသလက်ထက် မုံရွာမြို့ မဟာလယ်တီတိုက် ဒေါ်မေအုတ်ကျောင်း၌ သက္ကရာဇ် ၁၃၀၉–ခုနှစ်၊ ဝါဆိုလဆန်း (၂) ရက် (အေဒီ ၁၉၊ ဇွန်လ၊ ၁၉၄၇–ခုနှစ်) နေ့ ၁၂ နာရီ၌ လယ်တီကျောက်စာတိုက်ကြီးပြန်လည်ပြင်ဆင်ရန် ရှင်လူအပေါင်းတို့စုဝေးကြပါသည်။ ထိုအစည်းအဝေးတွင်မှ ဒုတိယကမ္ဘာစစ်ကြီးဒဏ်ကြောင့် ပြိုပျက်ခဲ့ရသော ကျောက်စာတိုက်ကြီးပြုပြင်ရန် လယ်တီကျောက်စာရုံအသင်းကြီးကို ဖွဲ့စည်းတည်ထောင်ခဲ့ကြပါသည်။

*[၁] ဒေါ်ဒဂုန်ခင်ခင်လေး၏ ၁၉၅၉–ခုနှစ်၊ ဩဂုတ်လ၊ ၅–ရက်နေ့မြင်ကွင်း သရုပ်ဖော်ချက်ဖြစ်သည်။ ဒဂုန်ခင်ခင်လေး၏ ပြည်တွင်းဆောင်းပါးပေါင်းချုပ်။ စည်ပင်သာယာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၅–ခုနှစ်။ (စာမျက်နှာ–၅၁၁)။

*[၂] ယခုတွေ့မြင်ရသော စကြံကျောင်းမှာ သတ္တမနာယကဆရာတော် ဦးဝိသာလ၏ လက်ထက် သက္ကရာဇ် ၁၃၃၇ (အေဒီ ၁၉၇၅)ခုနှစ်တွင် မူလပုံစံမပျက် ပြန်လည်ဆောက်လုပ်ထားခြင်းဖြစ်သည်။

*[၃] မောင်ကြည်ရှင်၏ ဩော်–သူမရှိလေ၍ (ဆောင်းပါး)။ မြဝတီမဂ္ဂဇင်း၊ အတွဲ–၈၊ အမှတ်–၈။ ၁၉၆၀–ပြည့်နှစ်၊ ဇွန်လ။ (စာမျက်နှာ–၂၄၀)။




စစ်ပြီးခေတ်၌လယ်တီကျောက်စာတိုက်ကြီးကိုပြန်လည်ပြုပြင်ရန်ရှိုးဆော်လွှာ





ပြန်လည်ပြုပြင်ခဲ့သော လယ်တီကျောက်စာတိုက်ကြီး



ကျောက်စာတိုက်အတွင်းပိုင်းကိုရှုမြင်ရပုံ



ပြုပြင်၍မရတော့သောကျောက်စာချပ်ကြီးအချို့

လယ်တီကျောင်းစာရုံအသင်း၏ဥက္ကဋ္ဌမှာ စတုတ္ထလယ်တီဆရာတော် ဦးနန္ဒဝံသ၊ ဒုတိယ ဥက္ကဋ္ဌတို့မှာ ဦးပုညနှင့်ဦးဇဝနတို့ဖြစ်ကြသည်။ အသစ်ပြန်လည်ပြုပြင်ဆောက်လုပ်ရမည့်ကျောက်စာတိုက်ကြီးအတွက် နယ်လှည့်၍ဆော်ဩကာအလှူခံပေးတော်မူကြမည့် ဓမ္မကထိကဆရာတော်တို့မှာ ဇမ္ဗူပတိချောင်ဆရာတော်ဦးပဒုမ၊ ဓမ္မကထိကဦးဝိလာသနှင့်ဦးမဟိန္ဒ(လယ်တီဆရာသိန်း)တို့ ဖြစ်ကြသည်။ လယ်တီတိုက် စာချဘုန်းကြီးများဖြစ်တော်မူကြသော ဦးတေဇိန္ဒ (ဘိုးဘိုးကြီး)၊ ဦးပညာသီဟ၊ ဦးနန္ဒမာလာ၊ ဦးကုလာစာရ၊ ဦးစက္ကိန္ဒ၊ ဦးသဒ္ဓမ္မတို့က အမှုဆောင်ဆရာတော်များအဖြစ် ပါဝင်ကြပါသည်။ လယ်တီအရှေ့တိုက်အုပ်ဦးကေဝလနှင့် ရွှေဂူဆရာတော်တို့က ဟိတာရေခေါ် အကျိုးဆောင်များအဖြစ် ဆောင်ရွက်ခဲ့ကြပါသည်။

လူပုဂ္ဂိုလ်များဘက်မှ ဥက္ကဋ္ဌအဖြစ် တိုင်းလုံးမိတ်ဆွေဦးလူဒင်၊ အကျိုးဆောင်အဖြစ် ကျောင်းဒကာ ဦးဘသွင်၊ အမှုဆောင်လူကြီးများအဖြစ် ဦးအောင်သွင်၊ ဦးကျော်ဝင်း၊ ဦးကိုကြီးတို့ ဆောင်ရွက်ကြပြီး ငွေထိန်းမှာ ဦးစံကွန့်၊ စာရင်းစစ်မှာ ဦးသာခင်တို့ဖြစ်ကြပါသည်။*၁

ဤသို့လယ်တီကျောက်စာအသင်းကို ဖွဲ့စည်းခဲ့ကြသော်လည်း ခေတ်ကာလအခြေအနေ မငြိမ်သက်မှုကြောင့် ကျောက်စာတိုက်ပြုပြင်ရေးလုပ်ငန်းတို့ကို မလုပ်ဆောင်နိုင်ဘဲခဲ့ရပါသည်။

အေဒီ ၁၉၄၈–ခုနှစ် မြန်မာနိုင်ငံလွတ်လပ်ရေးရပြီးနောက် သက္ကရာဇ် ၁၃၁၂–ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် (၅)ရက် (အေဒီ ၂၉၊ နိုင်ဝင်ဘာလ၊ ၁၉၅၀–ပြည့်နှစ်) နေ့ ၂–နာရီတွင် မုံရွာမြို့၊ မဟာလယ်တီတိုက် ဦးကဝိကျောင်းပေါ်၌ လယ်တီကျောက်စာပြုပြင်ထိန်းသိမ်းရေးအတွက် ဆရာဒကာရှင်လူအပေါင်းတို့စုဝေးကြပြန်ကာ အစည်းအဝေးတစ်ရပ်ပြုလုပ်ခဲ့ကြပါသည်။ ထိုအစည်းအဝေး၌ ကျောက်စာပြုပြင်ရေးအတွက် အဖွဲ့သစ်ကိုပြန်လည်ဖွဲ့စည်းရာ ဥက္ကဋ္ဌမှာ ဘုန်းတော်ကြီးဦးကဝိ၊ ဒုတိယဥက္ကဋ္ဌမှာ ဦးပုည၊ အကျိုးဆောင်မှာ ဆရာတော်ဦးဇဝန–တို့ ဖြစ်ကြပါသည်။ ဆရာတော်ဦးတေဇိန္ဒ၊ ဦးနန္ဒမာလာ၊ ဦးပညာသီဟ၊ ဦးကုမာရ၊ ဦးနိသဘ၊ ဦးကေဝလတို့လည်းပါဝင်ကြပါသည်။ ဤတစ်ကြိမ်တွင် နယ်လှည့်ဓမ္မကထိကအဖြစ် ဇမ္ဗူပတိဆရာတော်ဦးပဒုမ၊ လယ်တီဦးဝိလာသနှင့် လယ်တီဦးမဟိန္ဒ(ဆရာသိန်း)တို့ကို ခန့်အပ်ထားကြသည်။ လူဒကာတို့ဘက်ကလည်း ဥက္ကဋ္ဌမှာ ဦးဘတင်၊ ဒုတိယဥက္ကဋ္ဌမှာ ဦးသာခင်၊ အကျိုးဆောင် ဦးဘသွင်၊ ဒုတိယအကျိုးဆောင် ဦးအောင်သွင်၊ ငွေထိန်းလူကြီး ဦးဘစိန်၊ စာရင်းစစ် ဆရာဝန်ကြီး ဦးထွန်းဖေ–တို့ဖြစ်ကြပါသည်။

ဤသို့လျှင် ကျောက်စာပြုပြင်ရေးအတွက် အဖွဲ့အစည်းများဖွဲ့စည်းခဲ့ကြသော်လည်း မုံရွာမြို့၌ လုံခြုံရေးမရှိမှုကြောင့်*၂ လယ်တီကျောက်စာပြုပြင်ရေးကို ထိထိရောက်ရောက် မဆောင်ရွက်နိုင်ခဲ့ပေ။ ထိုကျောက်စာလုပ်ငန်းကို ထိထိရောက်ရောက်လုပ်နိုင်သောကာလမှာ သက္ကရာဇ်

---

*၁ ၈၊ ၇၊ ၁၉၄၆–ခုနှစ်ထုတ် မန္တလေး လူထုသတင်းစာ။

*၂ အေဒီ ၁၉၄၉–ခုနှစ်တွင် မုံရွာမြို့၌ ရောင်စုံသူပုန်တို့ကြောင့် လုံခြုံရေးကင်းမဲ့၍ မြို့ရွာချောက်ချားခဲ့ရသည်။ Htwe Htwe Aung' History of Monywa, M.A. Thesis. Mandalay University, 1998. (Page-47)





လယ်တီကျောက်စာတိုက်အတွင်းရှိ ကျောက်စာချပ်များပြုပြင်ပြီးစိုက်ထူထားပုံ

၁၃၂၄ (အေဒီ ၁၉၆၂–ခုနှစ်) ဆဋ္ဌနာယကဆရာတော် ဦးတေဇိန္ဒ (ဘိုးဘိုးကြီး) လက်ထက်တွင် ဖြစ်သည်။ ထိုစဉ်တွင် ကျောက်စာတိုက်ကြီးကို အလျားပေ ၁၅၀၊ အနံပေ ၁၅၀၊ လေးမျက်နှာ၌ ဝင်ပေါက်တစ်ပေါက်စီ၊ ကျောက်စာတိုက်အလယ်ဗဟို အာရုံထက်၌ စေတီတော်ကြီးတစ်ဆူ၊ ကျောက်စာတိုက် ထောင့်လေးထောင့်၌ အတွင်းစေတီလေးဆူ၊ အပြင်စေတီလေးဆူ၊ ပေါင်း စေတီ ကိုးဆူ–စသည်ပါဝင်သော ကျောက်စာတိုက်ပုံစံသစ်ကိုရေးဆွဲ၍ အသစ်တစ်ဖန် တည်ဆောက်ခဲ့ကြပါသည်။

ကွဲပြိုပျက်စီးခဲ့သော ကျောက်စာချပ်များကိုလည်း တစ်ချပ်လျှင် ၃၇၀–ကျပ်နှုန်းဖြင့် မန္တလေးမှ မုံရွာအရောက် ကျောက်ချပ်သစ်များမှာယူပြီး ပြန်လည်ရေးကူးပြုပြင်ခဲ့ပါသည်။ ဤအချိန်၌ ကျောက်စာပြုပြင်ပေးသူမှာ မန္တလေးမြို့ မြောက်ပြင်၊ ထားဝယ်ကျုံးထိပ်၊ ကျောက်စာစာရေး ဦးဘနုဖြစ်ကြောင်းသိရသည်။ ထို့ပြင် ကျောက်စာတိုက် သစ်ပြန်လည်တည်ဆောက်ရာတွင်လည်း ဥက္ကဋ္ဌဦးဖေနှင့် မြို့မဝန်ထောက်ကြီး ဦးဘသော်တို့က အုတ်မြစ်ချခဲ့ကြပါသည်။

သက္ကရာဇ် ၁၃၄၄ (အေဒီ ၁၉၈၂) ခုနှစ် အဋ္ဌမနာယကဆရာတော်ဦးက္ကန္ဒကလက်ထက် တော်၌ ကျောက်စာတိုက်ကြီးကို ထီးတော်တင်နိုင်ခြင်း၊ ကျောက်စာတိုက်မျက်နှာကျက်များ၌ ကျွန်းပြားကပ်၊ လျှပ်စစ်မီးသွယ်တန်းပြီး ကျောက်ချပ်များဆေးကြောခြင်းဖြင့် ကျောက်စာတိုက်မှာ မြို့၏ဂုဏ်ဆောင် သာသနာ့ရှေ့ဆောင် နိုင်ငံတော်သာသနသမိုင်းဝင် မော်ကွန်းတင် လယ်တီ ကျောက်စာပြတိုက်ကြီးအဖြစ်သို့ ရောက်ရှိခဲ့ပါသည်။*၁

## ကျမ်းစာနှင့်ကျောက်ချပ်ရေအညွှန်း

ယခုလယ်တီကျောက်စာတိုက်အတွင်းရှိ ပထမလယ်တီဆရာတော်ဘုရားကြီး၏ ကျမ်းအရေ အတွက်မှာ (၉၁)ကျမ်းဖြစ်ပြီး ကျောက်ချပ်ရေပေါင်းမှာ (၅၃၄)ချပ်ဖြစ်ပါသည်။ လယ်တီပဏ္ဍိတ ဆရာဦးမောင်ကြီး မြန်မာပြန်သောကျမ်းစာ(၆)ကျမ်းအတွက် ကျောက်ချပ်ရေ(၁၆၄)နှင့် ဆရာတော်ဦးကဝိ နိဿယပြန်သော ပရမတ္ထဒီပနီနိဿယ(၁)ကျမ်းအတွက် ကျောက်ချပ်ရေ (၉၃)ချပ်၊ အစုစုကျမ်းပေါင်း(၉၈)ကျမ်း၊ ကျောက်ချပ်ရေ (၇၉၁) ချပ်ရှိကြောင်း တွေ့ရပါသည်။*၂

မုံရွာမြို့ လယ်တီကျောက်စာတိုက်ကြီးအတွင်းစိုက်ထူသော ကျောက်စာချပ်များကို အကွက် အားဖြင့် (၄)ကွက်ပိုင်းခြားလေ့လာနိုင်ပါသည်။ ကျောက်စာတိုက်ကြီး၏ အလယ်ဂန္ဓကုဋိကို ထား၍ ထောင့်အရပ်လေးရပ်တွင် အကွက်လေးကွက်၊ ထိုလေးကွက်တွင် တစ်ကွက်လျှင် ကျောက်စာချပ်ရေ ၁၀၀–ကျော် သို့မဟုတ် ၂၀၀–နီးပါးစိုက်ထူထားပါသည်။*၃

---

*၁ မောင်လှမြတ်(မုံရွာ)၏ လယ်တီဆရာတော်နှင့် မဟာလယ်တီကျောက်စာ။ လက်နိုပ်စက်မူ။ (စာမျက်နှာ–၅၁)။

*၂ ယင်း။ (စာမျက်နှာ ၅၆–၁၂၂)။ဦးအောင်သူ၏ မြန်မာနိုင်ငံကျောက်ထက်အက္ခရာတင်ပိဋကတ်သုံးပုံပါဠိတော် အဋ္ဌကထာနှင့် ဋီကာတို့၏ မာတိကာများ။ (စာမျက်နှာ–၁၄၁) တွင် ၁၉၆၂–ခုနှစ် ကောက်ယူသောစာရင်းအရ ကျမ်းပေါင်း(၉၇)ကျမ်းနှင့် ကျောက်ချပ်ရေ(၈၀၆)ချပ်ဖြစ်သည်–ဟုဖော်ပြထားပါသည်။

*၃ လှသမိန်၏ လယ်တီကျောက်စာများ(ဆောင်းပါး)။ ယဉ်ကျေးမှုစာစောင်၊ အတွဲ–၁၊ အမှတ်–၄။ ၁၉၅၅–ခုနှစ်၊ ဩဂုတ်လ။ (စာမျက်နှာ–၁၇)။



ပရမတ္ထဒီပနီကျောက်စာချပ်



အနုဒီပနီပါဠိကျောက်စာချပ်



နိရုတ္တိဒီပနီပါဠိကျောက်စာချပ်



သာသနဝိသောဓနီကျောက်စာချပ်


ကျောက်စာချပ်များလေ့လာရန်အတွက် အကွက်အမှတ်လမ်းညွှန်
မ
န
ရ
တ
မြောက်ဘက်
အကွက်အမှတ် (၁)
ကျောက်စာချပ်များ
အကွက်အမှတ် (၂)
ကျောက်စာချပ်များ
အဝင်ပေါက်
အရှေ့ဘက်
အနောက်ဘက်
အဝင်ပေါက်
အကွက်အမှတ် (၄)
ကျောက်စာချပ်များ
အကွက်အမှတ် (၃)
ကျောက်စာချပ်များ
တောင်ဘက်



ကမ္မဝါကျောက်စာချပ်



အလင်းကျမ်းကျောက်စာချပ်



ဥရောပဗုဒ္ဓဘာသာအလင်းပြကျမ်းကျောက်စာချပ်



ဂေါဏသုရာဒီပနီကျောက်စာချပ်




မုံရွာမြို့မဟာလယ်တီတိုက်အတွင်းရှိ မဟာလယ်တီကျောက်စာတိုက်ကြီး၏မုခ်ဦး









ယနေ့မြင်တွေ့ရသော လယ်တီကျောက်စာတိုက်ကြီး၏ရှုခင်း

ထိုကျောက်ချပ်ရေတို့ကို ဆိုင်ရာကျမ်းစာအမည်၊ ကျောက်ချပ်ရေနှင့် ကျောက်စာအမှတ်စသည်တို့ဖြင့် ပူးတွဲဖော်ပြလိုပါသည်။

ယင်းတို့မှာ–

| စဉ် | ကျမ်းအမည် | ကျောက်ချပ်ရေ | ကျောက်စာအမှတ်များ[*၁] |
|---|---|---|---|
| ၁။ | ကမ္မဋ္ဌာနဒီပနီ | (၁၀) ချပ် | ၄၁၆၊ ၄၃၆၊ ၄၃၄၊ ၄၃၅၊ ၄၃၇၊ ၄၃၈၊ ၄၄၉၊ ၄၅၀၊ ၄၅၁၊ ၄၅၂။ |
| ၂။ | ခရစ်ယောဝါဒပုစ္ဆာဝိဿဇ္ဇနာ[*၂] | (၅) ချပ် | ၅၄၅၊ ၅၅၁၊ ၅၅၈၊ ၅၆၅၊ ၅၆၄။ |
| ၃။ | ခန္ဓာ, အာယတန, ဓာတ်, သစ္စာလင်္ကာကျမ်း | (၁) ချပ် | ၅၆၆။ |
| ၄။ | ဂမ္ဘီရကဗျာကျမ်း | (၃) ချပ် | ၃၇၇၊ ၆၅၅၊ ၇၈၆။ |
| ၅။ | ဂမ္ဘီရဒီပနီကျမ်း[*၃] | (၅) ချပ် | ၃၅၇၊ ၃၆၄၊ ၃၆၃၊ ၃၇၂၊ ၃၇၁။ |
| ၆။ | ဂါရဝါဂါရဝဝိနိစ္ဆယပါဌ်[*၄] | (၁) ချပ် | ၁၁၁။ |
| ၇။ | ဂေါဏသူရာဒီပနီ | (၃) ချပ် | ၉၊ ၈၊ ၂၁။ |
| ၈။ | စတုသစ္စဒီပနီ | (၂) ချပ် | ၃၉၃၊ ၄၀၀။ |
| ၉။ | ဉာဏ်အသင်း, မာရ်အသင်း, ခန္ဓာအသင်း ရှင်းလင်းချက်[*၅] | (၂) ချပ် | ၅၀၀၊ ၅၀၁။ |
| ၁၀။ | ဒဋ္ဌိကမ္မဒီပနီပါဌ်[*၆] | (၃) ချပ် | ၉၉၊ ၉၈၊ ၁၁၇။ |
| ၁၁။ | ဒဋ္ဌိကမ္မဒီပနီနိဿယ | (၁၀) ချပ် | ၆၁၄၊ ၆၁၅၊ ၆၂၅၊ ၆၂၄၊ ၆၂၃၊ ၆၂၂၊ ၆၂၆၊ ၆၂၇၊ ၆၂၈၊ ၆၂၉။ |
| ၁၂။ | ဒါနာဒိဒီပနီ | (၂) ချပ် | ၅၆၉၊ ၅၇၁။ |
| ၁၃။ | ဒီဃာသနဝိနိစ္ဆယ[*၇] | (၂) ချပ် | ၄၉၉၊ ၅၀၂။ |
| ၁၄။ | ဓမ္မဒီပနီ | (၆) ချပ် | ၅၃၁၊ ၅၃၀၊ ၅၂၉၊ ၅၃၄၊ ၅၃၃၊ ၅၃၂။ |

---

*၁ ဤကျောက်စာအမှတ်စဉ်မှာ ကျမ်းစာမျက်နှာအစီအစဉ်အတိုင်း စဉ်ထားခြင်းဖြစ်သည်။ ဤအမှတ်စဉ်များကို မောင်လှမြတ် (မုံရွာ)ပြုစုသော လယ်တီဆရာတော်နှင့် မဟာလယ်တီကျောက်စာ။ (လက်နှိပ်စက်မူ)ပါ စာတမ်းမှရရှိပါသည်။ ယင်း။ (စာမျက်နှာ ၅၆–၁၂၂)။

*၂ ဘာသာရေးပုစ္ဆာပေါင်းချုပ်။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၅၆–ခုနှစ်စာအုပ်တွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

*၃ ဤကျမ်းမှာ ကင်းဝန်မင်းကြီးထံပေးပို့သော 'မိုက်မလင်းနိုင်လို့' အစရှိသော သံဝေဂလေးချိုးနှင့်အဖြေတို့ကို ဖော်ပြထားသောကျမ်းဖြစ်သည်။

*၄ သာသနဝိသောဓနီကျမ်း၊ ဒုတိယတွဲစာအုပ်တွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

*၅ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်ကျမ်းကြီး၊ ပထမတွဲစာအုပ်တွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

*၆ ဒဋ္ဌိကမ္မဒီပနီပါဌ်နှင့် နိဿယမှာ ပုံနှိပ်မူအဖြစ်သို့မရောက်သေးပါ။

*၇ မဟာသယနဒီပနီလေးကျမ်းတွဲ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၅–ခုနှစ်စာအုပ်တွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

| စဉ် | ကျမ်းအမည် | ကျောက်ချပ်ရေ | ကျောက်စာအမှတ်များ |
|---|---|---|---|
| ၁၅။ | ဓာတ်ကမ္မဋ္ဌာန်းကျမ်း | (၃) ချပ် | ၈၀၁၊ ၈၀၂၊ ၈၀၃။ |
| ၁၆။ | နိဗ္ဗာနဒီပနီ*၁ | (၁၂) ချပ် | ၃၇၈၊ ၃၇၀၊ ၃၆၅၊ ၃၅၆၊ ၃၅၁ ၃၄၂၊ ၃၃၇၊ ၃၂၈၊ ၃၂၃၊ ၃၁၄ ၃၀၉၊ ၃၀၀။ |
| | | (၁၀) ချပ် | ၅၂၃၊ ၅၄၀၊ ၅၄၁၊ ၅၄၃၊ ၅၄၂ ၅၅၄၊ ၅၅၃၊ ၅၅၆၊ ၅၅၅၊ ၅၆၇။ |
| ၁၇။ | နိဗ္ဗာနဝိသဇ္ဇနာ | (၂) ချပ် | ၅၆၈၊ ၅၇၀။ |
| ၁၈။ | နိယာမဒီပနီပါဌ်*၂ | (၇) ချပ် | ၇၄၊ ၇၃၊ ၈၅၊ ၈၄၊ ၈၇ ၈၆၊ ၉၇။ |
| ၁၉။ | နိယာမဒီပနီ | (၃) ချပ် | ၅၁၈၊ ၅၂၅၊ ၅၃၈။ |
| ၂၀။ | နိရုတ္တိဒီပနီနိဿယနံကျဉ်း | (၁၇) ချပ် | ၂၉၅၊ ၂၈၆၊ ၂၈၁၊ ၂၇၂၊ ၂၆၇ ၂၅၉၊ ၂၃၆၊ ၂၃၁၊ ၂၂၄၊ ၂၁၉ ၂၀၄၊ ၁၉၉၊ ၁၉၀၊ ၁၈၅၊ ၁၇၆ ၁၇၁၊ ၁၆၂။ |
| ၂၁။ | နိရုတ္တိဒီပနီပါဌ် | (၂၀) ချပ် | ၁၂၁၊ ၁၂၈၊ ၁၂၇၊ ၁၂၆၊ ၁၂၅ ၁၃၅၊ ၁၃၆၊ ၁၃၇၊ ၁၃၈၊ ၁၄၂ ၁၄၁၊ ၁၄၀၊ ၁၃၉၊ ၁၄၉၊ ၁၅၀ ၁၅၁၊ ၁၅၂၊ ၁၅၆၊ ၁၅၅၊ ၁၅၄။ |
| ၂၂။ | နှစ်ကျိပ်ရှစ်ဆူစက်ပရိတ်တော်ကြီး ကြီးပါဌ်*၃ | (၁) ချပ် | ၆၃၆။ |
| ၂၃။ | ပဋ္ဌာန်ဒီပနီပါဌ်*၄ | (၃) ချပ် | ၁၂၂၊ ၁၂၃၊ ၁၂၄။ |
| ၂၄။ | ပဋိစ္စသမုပ္ပါဒ်ဒီပနီ | (၁၅) ချပ် | ၄၀၇၊ ၄၁၂၊ ၄၁၉၊ ၄၃၂၊ ၄၄၀ ၄၄၇၊ ၄၅၄၊ ၄၆၁၊ ၄၆၉၊ ၄၇၆ ၄၈၃၊ ၄၉၀၊ ၄၉၇၊ ၅၀၄၊ ၅၁၀။ |

---

*၁ နိဗ္ဗာနဒီပနီကျမ်းကို ကျောက်စာတိုက်အတွင်း၌ နှစ်ကြိမ်ရေးထိုးထားပါသည်။ ပထမနေရာ (ကျောက်စာတိုက်အရှေ့ဘက်အဝင်လမ်း၏ တောင်,မြောက်ဝဲယာ၌) (၁၂)ချပ်ရေးထိုးထားပြီး၊ ဒုတိယနေရာ (ကျောက်စာတိုက်တောင်ဘက်အဝင်လမ်း၏ အနောက်ဘက်ခြမ်း၌) (၁၀)ချပ်ရေးထိုးထားသည်။

*၂ ဤနိယာမဒီပနီပါဌ်သည် ပုံနှိပ်မူအဖြစ်သို့ မရောက်သေးပါ။

*၃ လယ်တီပဏ္ဍိတအဖြေပေါင်းချုပ်ကျမ်းကြီး၊ ဒုတိယတွဲစာအုပ်တွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

*၄ ဤပဋ္ဌာန်ဒီပနီပါဌ်သည် ပုံနှိပ်မူအဖြစ်သို့ မရောက်သေးပါ။

| စဉ် | ကျမ်းအမည် | ကျောက်ချပ်ရေ | ကျောက်စာအမှတ်များ |
|---|---|---|---|
| ၂၅။ | ပဋ္ဌာနဒွေသဒီပနီပါဠိ | (၅) ချပ် | ၃၉၅၊ ၃၉၈၊ ၄၀၉၊ ၄၁၀၊ ၄၂၁။ |
| ၂၆။ | ပဋ္ဌာနဒွေသဒီပနီနိဿယ | (၁၄) ချပ် | ၃၂၆၊ ၃၂၇၊ ၃၃၈၊ ၃၃၉၊ ၃၄၀၊ ၃၄၁၊ ၃၅၂၊ ၃၅၃၊ ၃၅၄၊ ၃၅၅၊ ၃၆၆၊ ၃၆၇၊ ၃၆၈၊ ၃၆၉။ |
| ၂၇။ | ပဓာနသုတ်ပါဠိနိဿယ*၁ | (၃) ချပ် | ၁၁၄၊ ၁၁၃၊ ၁၁၂။ |
| ၂၈။ | ပဗ္ဗာဇနီယကမ္မဝါစာနှင့် မိုးပရိတ်ကြီးပါဠိ*၂ | (၂) ချပ် | ၄၂၂၊ ၄၂၆။ |
| ၂၉။ | ပရမတ္ထဒီပနီပါဠိ | (၂၈) ချပ် | ၁၉၃၊ ၁၉၄၊ ၁၉၈၊ ၁၉၇၊ ၁၉၆၊ ၁၉၅၊ ၂၀၅၊ ၂၀၆၊ ၂၀၇၊ ၂၀၈၊ ၂၁၈၊ ၂၁၇၊ ၂၁၆၊ ၂၁၅၊ ၂၂၅၊ ၂၂၆၊ ၂၂၇၊ ၂၃၀၊ ၂၂၉၊ ၂၂၈၊ ၂၃၇၊ ၂၃၈၊ ၂၃၉၊ ၂၄၀၊ ၂၄၄၊ ၂၄၃၊ ၂၄၂၊ ၂၄၁။ |
| ၃၀။ | ပရမတ္ထသံခိပ် | (၂) ချပ် | ၂၃၄၊ ၂၄၆။ |
| ၃၁။ | ပရမတ္ထသံခိပ်အကျယ်*၃ | (၁၁) ချပ် | ၄၈၄၊ ၄၈၉၊ ၄၉၈၊ ၅၀၃၊ ၅၁၂၊ ၅၈၇၊ ၅၂၆၊ ၅၃၇၊ ၅၄၆၊ ၅၅၀၊ ၅၅၉။ |
| ၃၂။ | ပါရမီဒီပနီ | (၁၂) ချပ် | ၃၉၄၊ ၃၉၉၊ ၄၀၈၊ ၄၁၁၊ ၄၂၀၊ ၄၃၁၊ ၄၄၁၊ ၄၄၆၊ ၄၅၅၊ ၄၆၈၊ ၄၇၀၊ ၄၇၅။ |
| ၃၃။ | ပုဏ္ဏောဝါဒကမ္မဋ္ဌာန်း | (၂) ချပ် | ၃၉၆၊ ၃၉၇။ |
| ၃၄။ | ဗဟုဝုစ်အဠ္ဌသမောဓာန် ကမ္မဝါစာ*၄ | (၁) ချပ် | ၄၄၄။ |
| ၃၅။ | ဗုဒ္ဓဘာသာ၊ ပြာဟ္မဏဘာသာ ရှင်းလင်းချက် | (၃) ချပ် | ၅၃၅၊ ၅၃၆၊ ၅၄၇။ |
| ၃၆။ | ဗောဓိပက္ခိယဒီပနီ | (၇) ချပ် | ၁၈၆၊ ၁၈၇၊ ၁၈၈၊ ၁၈၉၊ ၂၀၀၊ ၂၀၁၊ ၂၀၂။ |

*၁ ပဓာနသုတ်ပါဠိနိဿယကို ဝိဇ္ဇာမဂ္ဂဒီပနီ၊ လက္ခဏာဒီပနီစသည့်ကျမ်းများနှင့်တွဲဖက်၍ ရိုက်နှိပ်ခဲ့ခြင်းဖြစ်ပါသည်။

*၂ လယ်တီပုဏ္ဍာအဖြေပေါင်းချုပ်ကျမ်းကြီး၊ ဒုတိယတွဲစာအုပ်တွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

*၃ ပရမတ္ထသံခိပ်၏ အဓိပ္ပာယ်ရှင်းလင်းချက်များနှင့် အကျယ်ဖော်ပြထားခြင်းဖြစ်သည်။

*၄ ကမ္မဝါဒီပနီ၌ ထည့်သွင်းဖော်ပြထားပါသည်။

| စဉ် | ကျမ်းအမည် | ကျောက်ချပ်ရေ | ကျောက်စာအမှတ်များ |
|---|---|---|---|
| ၃၇။ | ဘယဝိနာသကဒီပနီ*၁ နှင့် ပတ္တမြားမေတ္တာစာ*၂ | (၂) ချပ် | ၃၂၅၊ ၃၂၄။ |
| ၃၈။ | ဘာဝနာဒီပနီ | (၁၉) ချပ် | ၄၆၄၊ ၄၆၅၊ ၄၆၆၊ ၄၆၇၊ ၄၇၈၊ ၄၇၉၊ ၄၈၀၊ ၄၈၁၊ ၄၉၂၊ ၄၉၃၊ ၄၉၄၊ ၄၉၅၊ ၅၀၆၊ ၅၀၇၊ ၅၀၈၊ ၅၀၉၊ ၅၂၀၊ ၅၂၁၊ ၅၂၂။ |
| ၃၉။ | မဂ္ဂင်္ဂဒီပနီ | (၄) ချပ် | ၃၈၈၊ ၃၈၇၊ ၃၉၀၊ ၃၈၉။ |
| ၄၀။ | မဟာသရဏဂုံတော်ကြီးပါဠိ | (၁) ချပ် | ၆၃၇။ |
| ၄၁။ | မဟာသရဏဂုံတော်ကြီးနိဿယ | (၂) ချပ် | ၄၅၆၊ ၄၅၉။ |
| ၄၂။ | မဟာသယနဒီပနီ | (၅) ချပ် | ၂၂၃၊ ၂၂၂၊ ၂၃၃၊ ၂၃၂၊ ၂၃၅။ |
| ၄၃။ | မူလပရိယာယသုတ္တတ္ထဒီပနီ*၃ | (၆) ချပ် | ၁၃၀၊ ၁၃၁၊ ၁၃၂၊ ၁၃၃၊ ၁၄၄။ ၁၄၅။ |
| ၄၄။ | ရူပဒီပနီ | (၇) ချပ် | ၂၈၉၊ ၂၉၂၊ ၃၀၃၊ ၃၀၆၊ ၃၁၇၊ ၃၂၀၊ ၃၃၁။ |
| ၄၅။ | ရောဂန္တရဒီပနီ | (၆) ချပ် | ၇၊ ၆၊ ၅၊ ၄၊ ၁၁၊ ၁၀။ |
| ၄၆။ | လက္ခဏာဒီပနီ | (၄) ချပ် | ၇၀၊ ၆၉၊ ၇၂၊ ၇၁။ |
| ၄၇။ | လန်ဒန်ပါဠိဒေဝီပုစ္ဆာ ဝိသဇ္ဇနာပါဠိ*၄ | (၆) ချပ် | ၄၂၅၊ ၄၂၄၊ ၄၂၃၊ ၄၂၈၊ ၄၂၇၊ ၄၂၆။ |
| ၄၈။ | လန်ဒန်ပါဠိဒေဝီပုစ္ဆာ ဝိသဇ္ဇနာနိဿယ | (၂၀) ချပ် | ၂၅၁၊ ၂၅၂၊ ၂၅၃၊ ၂၅၄၊ ၂၅၅၊ ၂၅၆၊ ၂၅၇၊ ၂၅၈၊ ၂၆၈၊ ၂၆၉၊ ၂၇၀၊ ၂၇၁၊ ၂၈၂၊ ၂၈၃၊ ၂၈၄၊ ၂၈၅၊ ၂၉၆၊ ၂၉၇၊ ၂၉၈၊ ၂၉၉။ |

*၁ ဘယဝိနာယသကဒီပနီမှာ မော်လမြိုင်မြို့ကြွစဉ် ပလိပ်ရောဂါအတွက် ရိုးရာနတ်ပူဇော်အပ်ကြောင်း ရေးသားသော ဒီပနီကျမ်းစာဖြစ်သော်လည်း၊ ဤကျောက်ချပ်၌ ဘယဝိနာသကဒီပနီဟု ခေါင်းစဉ်တပ်ထားပြီး ကျောက်ချပ်ပေါ်တွင် 'ငရုံ့မင်းပရိတ်၊ မိုးကမ္ဘဝါ၊ မိုးကမ္ဘဝါကြီး၊ မိုးအမိန့်ပြန်တမ်း၊ ပဗ္ဗာဇနီယကမ္မဝါစာ' တို့ကို ရေးထိုးထားပါသည်။

*၂ မိုးကုတ်မြို့ ပတ္တမြားသူဌေးကြီး ဦးမှတ်သို့ ဒီပဲယင်းမြို့ ရွှေသိမ်တော်ဘုရားပြုပြင်ရန် ပေးသော မေတ္တာစာဖြစ်ပါသည်။

*၃ သာသနဝိသောဓနီကျမ်း၊ ဒုတိယတွဲစာအုပ်တွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

*၄ ဤပုစ္ဆာဝိသဇ္ဇနာတွင် (၁) သညာပုစ္ဆာ၊ (၂) နိယာမပုစ္ဆာ၊ (၃) ယမိုက်ပုစ္ဆာ၊ (၄) ပဌာန်းပုစ္ဆာ–ဟု ပုစ္ဆာလေးမျိုးနှင့် ဆိုင်ရာဝိသဇ္ဇနာများ စုပေါင်း၍ဖော်ပြထားသည်။

| စဉ် | ကျမ်းအမည် | ကျောက်ချပ်ရေ | ကျောက်စာအမှတ်များ |
|---|---|---|---|
| ၄၉။ | လယ်တီစာသင်နည်း[*၁] | (၂) ချပ် | ၄၇၁၊ ၄၇၄။ |
| ၅၀။ | လယ်တီမင်္ဂလသုတ္တန် | (၁) ချပ် | ၈၀၄။ |
| ၅၁။ | ဝဿဝါသိကပုစ္ဆာဝိသဇ္ဇနာ[*၂] | (၁) ချပ် | ၉၆။ |
| ၅၂။ | ဝိကာလဘောဇနသိက္ခာပုဒ်အဆုံးအဖြတ်[*၃] | (၁) ချပ် | ၅၁၄။ |
| ၅၃။ | ဝိနယသံခိပ်ကျမ်း[*၄] | (၂) ချပ် | ၄၇၂၊ ၄၇၃။ |
| ၅၄။ | ဝိနယသံခိပ်ကျမ်းအကျယ် | (၁၁) ချပ် | ၂၆၃၊ ၂၇၆၊ ၂၇၇၊ ၂၉၀၊ ၂၉၁၊ ၃၀၄၊ ၃၀၅၊ ၃၁၈၊ ၃၁၉၊ ၃၃၂၊ ၃၃၃။ |
| ၅၅။ | ဝိပဿနာဒီပနီပါဌ်[*၅] | (၆) ချပ် | ၂၁၁၊ ၂၁၀၊ ၂၀၉၊ ၂၁၄၊ ၂၁၃၊ ၂၁၂။ |
| ၅၆။ | ဝိပဿနာဒီပနီ | (၆) ချပ် | ၅၄၉၊ ၅၆၀၊ ၅၆၃၊ ၅၄၈၊ ၅၆၁၊ ၅၆၂။ |
| ၅၇။ | ဝိရတိသီလဝိနိစ္ဆယကျမ်း[*၆] | (၂) ချပ် | ၄၈၅၊ ၄၈၈။ |
| ၅၈။ | ဝိဇ္ဇာမဂ္ဂဒီပနီ | (၄) ချပ် | ၁၄၇၊ ၁၄၆၊ ၁၅၉၊ ၁၅၈။ |
| ၅၉။ | သစ္စာလေးပါးအနတ္တ ရာယ်ကင်းပါဠိ | (၂) ချပ် | ၄၆၂၊ ၄၅၃။ |
| ၆၀။ | သစ္စာလေးပါးအနတ္တ ရာယ်ကင်းပါဌ်နိဿယ | (၁) ချပ် | ၄၄၈။ |
| ၆၁။ | သစ္စတ္တဒီပနီ | (၁) ချပ် | ၃၃၄။ |
| ၆၂။ | သဒ္ဒသံခိပ်လက်စွဲ[*၇] | (၄) ချပ် | ၃၁၀၊ ၃၁၁၊ ၃၁၂၊ ၃၁၃။ |
| ၆၃။ | သဒ္ဒသင်္ခေပဒီပနီ[*၈] | (၁၇) ချပ် | ၅၅၇၊ ၅၅၂၊ ၅၄၄၊ ၅၃၉၊ ၅၂၄၊ ၅၁၉၊ ၅၁၀၊ ၅၀၅၊ ၄၉၆၊ ၄၉၁၊ |

*၁ သာသနဝိဘောဇနီကျမ်း၊ တတိယတွဲစာအုပ်တွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

*၂ သာသနဝိဘောဇနီကျမ်း၊ ပထမတွဲစာအုပ်တွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

*၃ သရဏဂုံဝိနိစ္ဆယကျမ်း၊ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့စာအုပ်တွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

*၄ ဝိနယသံခိပ်ဆိုင်ရာအကျယ်ရှင်းလင်းချက်မပါဘဲ သံခိပ်သက်သက်ကိုသာ ရေးထိုးထားခြင်းဖြစ်သည်။

*၅ ဤဝိပဿနာဒီပနီပါဌ်သည် ပုံနှိပ်မှုအဖြစ်သို့ မရောက်သေးပါ။

*၆ သရဏဂုံဝိနိစ္ဆယကျမ်းသစ်၊ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့စာအုပ်တွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

*၇ သဒ္ဒသံခိပ်ဆိုင်ရာအကျယ်ရှင်းလင်းချက်မပါဘဲ သံခိပ်သက်သက်ကိုသာ ရေးထိုးထားခြင်းဖြစ်သည်။

*၈ သဒ္ဒမဉ္ဇူရီအမည်ဖြင့် လယ်တီဆရာတော်ဘုရားကြီး၏ တာဝန်ပေးချက်အရ တပည့် လယ်တီပဏ္ဍိတရေးသားသော သဒ္ဒမဉ္ဇူရီအမည်ဖြင့် အကျယ်ဖွင့်ဆို ပြေဆိုသောကျမ်းစာဖြစ်သည်။

| စဉ် | ကျမ်းအမည် | ကျောက်ချပ်ရေ | ကျောက်စာအမှတ်များ |
|---|---|---|---|
| | | | ၄၈၂၊ ၄၀၁၊ ၄၀၆၊ ၄၁၃၊ ၄၁၈၊ ၄၃၃၊ ၄၃၉။ |
| ၆၄။ | သရဏဂုံဝိနိစ္ဆယ | (၂) ချပ် | ၅၁၃၊ ၅၁၆။ |
| ၆၅။ | သမ္ပဝ္ပလာပဝိနိစ္ဆယ | (၃) ချပ် | ၁၁၆၊ ၁၁၉၊ ၁၁၈။ |
| ၆၆။ | သမ္မာဒိဋ္ဌိဒီပနီ | (၇) ချပ် | ၉၂၊ ၉၃၊ ၉၄၊ ၁၀၁၊ ၁၀၂၊ ၁၀၃၊ ၁၀၄။ |
| ၆၇။ | သာသနဒါယဇ္ဇဒီပနီ | (၂) ချပ် | ၆၃၉၊ ၆၃၈။ |
| ၆၈။ | သာသနဝိသောဓနီ(ပဌမတွဲ) | (၂၁) ချပ် | ၅၇၂၊ ၅၇၃၊ ၅၇၄၊ ၅၇၅၊ ၅၇၆၊ ၅၇၇၊ ၅၇၈၊ ၅၇၉၊ ၅၈၉၊ ၅၉၀၊ ၅၉၁၊ ၅၉၂၊ ၆၀၃၊ ၆၀၄၊ ၆၀၅၊ ၆၀၆၊ ၆၁၇၊ ၆၁၈၊ ၆၁၉၊ ၆၂၀၊ ၆၃၁။ |
| ၆၉။ | သာသနဝိသောဓနီ(ဒုတိယတွဲ) | (၁၈) ချပ် | ၆၃၂၊ ၆၃၃၊ ၆၃၄၊ ၂၊ ၁၊ ၁၄၊ ၁၃၊ ၁၆၊ ၁၅၊ ၂၈၊ ၂၇၊ ၃၀၊ ၂၉၊ ၄၂၊ ၄၁၊ ၄၄၊ ၄၃၊ ၅၆။ |
| ၇၀။ | သာသနဝိသောဓနီ(တတိယတွဲ)*၁ | (၁၅) ချပ် နှင့် မျက်နှာဝက် | ၅၅၊ ၅၈၊ ၅၇၊ ၆၄၊ ၆၃၊ ၆၆၊ ၆၅၊ ၆၈၊ ၆၇၊ ၅၈၃၊ ၅၈၂၊ ၅၈၁၊ ၅၈၄၊ ၅၈၅၊ ၅၈၆။ |
| ၇၁။ | သာသနသမ္ပတ္တိဒီပနီပါဠ်*၂ | (၆) ချပ် | ၁၀၇၊ ၁၀၆၊ ၁၀၅၊ ၁၁၀၊ ၁၀၉၊ ၁၀၈။ |
| ၇၂။ | သတ်ပုံသံခိပ် | (၁) ချပ် | ၃၇၆။ |
| ၇၃။ | သီလဝိနိစ္ဆယကျမ်း | (၂) ချပ် | ၅၁၆၊ ၅၂၇။ |

*၁ သာသနဝိသောဓနီကျမ်းကို ပထမတွဲ၊ ဒုတိယတွဲ၊ တတိယတွဲ–ဟု သုံးတွဲခွဲ၍ ပထမတွဲ (၂၁)ချပ်၊ ဒုတိယတွဲ (၁၈)ချပ်၊ တတိယတွဲ(၁၄)ချပ် စုစုပေါင်း ကျောက်ချပ်ရေ (၅၃)ချပ်နှင့် ထက်ဝက်ရေးထိုးပြီးဖြစ်သော်လည်း သာသနဝိသောဓနီ ခေါင်းစီး(အတွဲမပါ)ဖြင့် အောက်ပါအတိုင်း ထပ်မံကျောက်ချပ် (၁၅)ချပ်နှင့် မျက်နှာထက်ဝက်တို့ကို တွေ့ရပါသည်။ ယင်းကျောက်ချပ်တို့တွင် အမေးအဖြေပုစ္ဆာ(၁၈)ခုတို့ကို ထုထွင်းထားပြီး ကျောက်ချပ်အမှတ်များမှာ ၅၈၇၊ ၅၉၇၊ ၅၉၆၊ ၅၉၅၊ ၅၉၄၊ ၅၉၈၊ ၅၉၉၊ ၆၀၀၊ ၆၀၁၊ ၆၁၁၊ ၆၁၀၊ ၆၀၉၊ ၆၀၈၊ ၆၁၂၊ ၆၁၃–တို့ ဖြစ်ပါသည်။

*၂ ဤသာသနသမ္ပတ္တိဒီပနီပါဠ်သည် ပုံနှိပ်မှုအဖြစ်သို့ မရောက်သေးပါ။

| စဉ် | ကျမ်းအမည် | ကျောက်ချပ်ရေ | ကျောက်စာအမှတ်များ |
|---|---|---|---|
| ၇၄။ | သုကုမာရမဂ္ဂဒီပနီ | (၃) ချပ် | ၂၆၄၊ ၂၇၅၊ ၂၇၈။ |
| ၇၅။ | သုဒ္ဓန္တ ဒွန္တ ကမ္မဝါစာ*၁ | (၂) ချပ် | ၄၅၇၊ ၄၅၈။ |
| ၇၆။ | သောမနဿုပေက္ခာဒီပနီ | (၄) ချပ် | ၂၄၈၊ ၂၄၇၊ ၂၅၀၊ ၂၄၉။ |
| ၇၇။ | အတ္တ–အနတ္တ ပုစ္ဆာဝိသဇ္ဇနာ*၂ | (၂) ချပ် | ၄၈၆၊ ၄၈၇။ |
| ၇၈။ | အနတ္တဒီပနီ | (၆) ချပ် | ၁၆၁၊ ၁၆၀၊ ၁၇၃၊ ၁၇၂၊ ၁၇၅၊ ၁၇၄။ |
| ၇၉။ | အနတ္တဒီပနီကျမ်းသစ် | (၄) ချပ် | ၃၅၉၊ ၃၆၂၊ ၃၇၃၊ ၃၇၅။ |
| ၈၀။ | အနတ္တဝိဘာဝနာပါဠိနိဿယ | (၂) ချပ် | ၅၁၅၊ ၅၂၈။ |
| ၈၁။ | အနတ္တာနိသံသကျမ်း | (၁) ချပ် | ၂၆၂။ |
| ၈၂။ | အနုဒီပနီပါဌ်*၃ | (၁၉) ချပ် | ၁၅၃၊ ၁၆၃၊ ၁၆၄၊ ၁၆၅၊ ၁၆၆၊ ၁၇၀၊ ၁၆၉၊ ၁၆၈၊ ၁၆၇၊ ၁၇၇၊ ၁၇၈၊ ၁၇၉၊ ၁၈၀၊ ၁၈၄၊ ၁၈၃၊ ၁၈၂၊ ၁၇၁၊ ၁၉၁၊ ၁၉၂။ |
| ၈၃။ | အလင်းကျမ်း | (၅) ချပ် | ၃၄၆၊ ၃၄၇၊ ၃၆၀၊ ၃၆၁၊ ၃၇၄။ |
| ၈၄။ | အာဇီဝဋ္ဌမကအဆုံးအဖြတ်*၄ | (၁) ချပ် | ၂၄၅။ |
| ၈၅။ | အာနာပါနဒီပနီ | (၂) ချပ် | ၃၄၅၊ ၃၄၈။ |
| ၈၆။ | အာဟာရဒီပနီ | (၈) ချပ် | ၃၇၉၊ ၃၈၀၊ ၃၈၁၊ ၃၈၂၊ ၃၈၃၊ ၃၈၄၊ ၃၈၅၊ ၃၈၆။ |
| ၈၇။ | ဣန္ဒြိယပရိဘောဂဝိနိစ္ဆယ | (၃) ချပ် | ၄၃၀၊ ၄၄၂၊ ၄၄၅။ |
| ၈၈။ | ဥပသမ္ပဒဝိနိစ္ဆယ*၅ | (၃) ချပ် | ၂၀၃၊ ၂၂၀၊ ၂၂၁။ |
| ၈၉။ | ဥရောပဗုဒ္ဓဘာသာအလင်းပြ*၆ | (၂) ချပ် | ၈၀၅၊ ၈၀၆။ |

*၁ ကမ္မဝါဒီပနီတွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

*၂ လယ်တီပုစ္ဆာအဖြေပေါင်းချုပ်ကျမ်းကြီး၊ ပထမတွဲစာအုပ်တွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

*၃ ပရမတ္ထဒီပနီ (သင်္ဂြိုဟ်မဟာဋီကာသစ်)၏ အဖွင့်ကိုဆိုလိုပါသည်။

*၄ သရဏဂုံသီလဝိနိစ္ဆယကျမ်း၊ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့စာအုပ်တွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

*၅ လယ်တီဝိနိစ္ဆယသူစိ၊ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့စာအုပ်တွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

*6 ဤကျောက်စာမှာ လယ်တီဆရာတော်ဘုရားကြီး ပါဠိဘာသာဖြင့်ရေးသား၍ ဥရောပသို့ပေးပို့သော ဥရောပ ဗုဒ္ဓဘာသာ ဒီပနီ ဖြစ်ပါသည်။

| စဉ် | ကျမ်းအမည် | ကျောက်ချပ်ရေ | ကျောက်စာအမှတ်များ |
|---|---|---|---|
| ၉၀။ | ဥတ္တမပုရိသဒီပနီ | (၉) ချပ် | ၃၉၂၊ ၃၉၁၊ ၄၀၃၊ ၄၀၂၊ ၄၀၅၊ ၄၀၄၊ ၄၁၅၊ ၄၁၄၊ ၄၁၇။ |
| ၉၁။ | ကေဝဋ္ဋကအဋ္ဌသမောဓာန်*၁ | (၁) ချပ် | ၄၄၃။ |

အထက်၌ဖော်ပြခဲ့သောကျမ်းစာနှင့်ကျောက်စာချပ်အမှတ်များမှာ လယ်တီဆရာတော်ဘုရားကြီး ရေးသားပြုစုတော်မူသော ဒီပနီကျမ်းစာတို့ကို ကျောက်ထက်အက္ခရာတင်ထားမှုနှင့်စပ်၍ ကျောက်စာချပ်အညွှန်းနှင့်တကွ တင်ပြခဲ့ခြင်းဖြစ်ပါသည်။

လယ်တီကျောက်စာပြတိုက်ကြီးအတွင်း၌ လယ်တီဆရာတော်ဘုရားကြီးပြုစုတော်မူသော ဒီပနီကျမ်းစာများသာမက ဆရာတော်ဘုရားကြီး ဒီပနီကျမ်းစာတို့ကို မြန်မာပြန်, နိဿယပြန်ဆိုထားသော လယ်တီပဏ္ဍိတဦးမောင်ကြီး၏ကျမ်း(၆)ကျမ်းနှင့် ဦးကဝိ၏ သင်္ဂြိုဟ်မဟာဋီကာ နိဿယကျမ်းတို့ကိုလည်း ကျောက်ထက်အက္ခရာတင်ထားသည်မှာ အောက်ပါအတိုင်းတွေ့ရပါသည်။

| | | | |
|---|---|---|---|
| ၁။ | လယ်တီပဏ္ဍိတ၏ ဒွိမူလဒီပနီ*၂ | (၂) ချပ် | ၆၆၉၊ ၆၆၈။ |
| ၂။ | လယ်တီပဏ္ဍိတ၏ ပစ္စယမဥ္ဇရီ | (၁၂) ချပ် | ၇၀၀၊ ၆၉၉၊ ၆၉၈၊ ၆၉၇၊ ၆၉၆၊ ၆၉၅၊ ၆၉၄၊ ၆၉၃၊ ၆၉၂၊ ၆၉၁၊ ၆၉၀၊ ၆၈၉။ |
| ၃။ | လယ်တီပဏ္ဍိတ၏ ပရမတ္ထသံခိပ်ဋီကာ | (၆၆) ချပ် | ၁၄၈၊ ၁၄၃၊ ၁၃၄၊ ၁၂၉၊ ၁၂၀၊ ၁၁၅၊ ၁၀၀၊ ၉၅၊ ၈၈၊ ၈၃၊ ၆၇၀၊ ၆၇၁၊ ၆၇၂၊ ၆၇၃၊ ၆၇၄၊ ၆၇၅၊ ၆၇၆၊ ၆၇၇၊ ၆၇၈၊ ၆၇၉၊ ၆၈၀၊ ၆၈၁၊ ၆၈၂၊ ၆၈၃၊ ၆၈၄၊ ၆၅၂၊ ၆၅၁၊ ၆၄၈၊ ၆၄၇၊ ၆၄၄၊ ၆၄၃၊ ၆၄၀၊ ၇၉၉၊ ၇၉၈၊ ၇၉၅၊ ၉၇၄၊ ၇၉၁၊ ၇၉၀၊ ၇၈၇၊ ၇၈၈၊ |

*၁ ကမ္မဝါဒီပနီတွင် ထည့်သွင်းပုံနှိပ်ထားပါသည်။

*၂ ဤဒွိမူလဒီပနီမှာ လယ်တီပဏ္ဍိတ၏ ပထမဦးကိုယ်ပိုင်လက်ရာဖြစ်ပြီး၊ ဆရာတော်ဘုရားကြီး၏ ကျမ်းစာတို့နှင့်သက်ဆိုင်ခြင်းမရှိပါ။ ရှေးက ပစ္စယမဥ္ဇရီကျမ်းနှင့်တွဲ၍ ပုံနှိပ်ခဲ့ပါသည်။

| စဉ် | ကျမ်းအမည် | ကျောက်ချပ်ရေ | ကျောက်စာအမှတ်များ |
|---|---|---|---|
| | | | ၇၈၉၊ ၇၉၂၊ ၇၉၃၊ ၇၉၆၊ ၇၉၇၊ ၈၀၀၊ ၆၄၁၊ ၆၄၂၊ ၆၄၅၊ ၆၄၆၊ ၆၄၉၊ ၆၅၀၊ ၆၅၃၊ ၆၅၄၊ ၇၅၃၊ ၇၅၄၊ ၇၅၅၊ ၇၅၆၊ ၇၅၄[*၁]၊ ၆၈၅၊ ၆၈၆၊ ၆၈၇၊ ၆၈၈၊ ၄၆၃၊ ၄၆၈၊ ၄၇၇။ |
| ၄။ | လယ်တီပဏ္ဍိတ၏ ဝီထိမဥ္ဇရီ | (၁၈) ချပ် | ၅၉၊ ၅၄၊ ၄၅၊ ၄၀၊ ၃၁၊ ၂၆၊ ၁၇၊ ၁၂၊ ၃၊ ၆၃၅၊ ၆၃၀၊ ၆၂၁၊ ၆၁၆၊ ၆၀၇၊ ၆၀၂၊ ၅၉၃၊ ၅၈၈၊ ၅၈၀။ |
| ၅။ | လယ်တီပဏ္ဍိတ၏ သဒ္ဒသံခိပ်အကျယ် | (၂၉) ချပ် | ၂၆၁၊ ၂၆၀၊ ၂၆၆၊ ၂၆၅၊ ၂၇၄၊ ၂၇၃၊ ၂၈၀၊ ၂၇၉၊ ၂၈၈၊ ၂၈၇၊ ၂၉၄၊ ၂၉၃၊ ၃၀၂၊ ၃၀၁၊ ၃၀၈၊ ၃၀၇၊ ၃၁၆၊ ၃၁၅၊ ၃၂၂၊ ၃၂၁၊ ၃၃၀၊ ၃၂၉၊ ၃၃၆၊ ၃၃၅၊ ၃၄၄၊ ၃၄၃၊ ၃၅၀၊ ၃၄၉၊ ၃၅၈။ |
| ၆။ | လယ်တီပဏ္ဍိတ၏ သာသနသမ္ပတ္တိဒီပနီ | (၃၇) ချပ် | ၂၀၊ ၁၉၊ ၁၈၊ ၂၅၊ ၂၄၊ ၂၃၊ ၂၂၊ ၃၅၊ ၃၄၊ ၃၃၊ ၃၂၊ ၃၉၊ ၃၈၊ ၃၇၊ ၃၆၊ ၄၉၊ ၄၈၊ ၄၇၊ ၄၆၊ ၅၃၊ ၅၂၊ ၅၁၊ ၅၀၊ ၆၂၊ ၆၁၊ ၆၀၊ ၇၈၊ ၇၇၊ ၇၆၊ ၇၅၊ ၈၂၊ ၈၁၊ ၈၀၊ ၇၉၊ ၈၉၊ ၉၀၊ ၉၁။ |

*၁ ဤကျောက်စာအမှတ် ၇၅၄ မှာ ကျိုးပဲ့နေပါသည်။






လယ်တီကျောက်စာတိုက်ကြီးအနီးရှိ ဇေတီရှစ်မျက်နှာဘုရားနှင့်စေတီတော်မြတ်





လယ်တီကျောက်စာတိုက်ကြီးအနီးရှိ လယ်တီရက္ခစိုးဘိုးဘိုးကြီးနန်းနှင့်ဘိုးဘိုးကြီးပုံ

| စဉ် | ကျမ်းအမည် | ကျောက်ချပ်ရေ | ကျောက်စာအမှတ်များ |
|---|---|---|---|
| ၇။ | ဦးကဝိ၏ ပရမတ္ထဒီပနီ နိဿယ | (၉၃) ချပ် | ၆၆၇၊ ၆၆၆၊ ၆၆၅၊ ၆၆၄၊ ၆၆၃၊ ၆၆၂၊ ၆၆၁၊ ၆၆၀၊ ၆၅၉၊ ၆၅၈၊ ၆၅၇၊ ၆၅၆၊ ၇၈၅၊ ၇၈၄၊ ၇၈၃၊ ၇၈၂၊ ၇၈၁၊ ၇၈၀၊ ၇၇၉၊ ၇၇၈၊ ၇၇၇၊ ၇၇၆၊ ၇၇၅၊ ၇၇၄၊ ၇၇၃၊ ၇၇၂၊ ၇၇၁၊ ၇၇၀၊ ၇၆၉၊ ၇၆၈၊ ၇၆၇၊ ၇၆၆၊ ၇၆၅၊ ၇၆၄၊ ၇၆၃၊ ၇၅၉၊ ၇၅၈၊ ၇၅၇၊ ၇၆၂၊ ၇၆၁၊ ၇၆၀၊ ၇၅၂၊ ၇၅၁၊ ၇၅၀၊ ၇၄၉၊ ၇၄၈၊ ၇၄၇၊ ၇၄၆၊ ၇၄၅၊ ၇၄၄၊ ၇၄၃၊ ၇၄၂၊ ၇၄၁၊ ၇၄၀၊ ၇၃၉၊ ၇၃၈၊ ၇၃၇၊ ၇၃၆၊ ၇၃၅၊ ၇၃၄၊ ၇၃၃၊ ၇၃၂၊ ၇၃၁၊ ၇၃၀၊ ၇၂၉၊ ၇၂၈၊ ၇၂၇၊ ၇၂၆၊ ၇၂၅၊ ၇၂၄၊ ၇၂၃၊ ၇၂၂၊ ၇၂၁၊ ၇၂၀၊ ၇၁၉၊ ၇၁၈၊ ၇၁၇၊ ၇၁၆၊ ၇၁၅၊ ၇၁၄၊ ၇၁၃၊ ၇၁၂၊ ၇၁၁၊ ၇၁၀၊ ၇၀၉၊ ၇၀၈၊ ၇၀၇၊ ၇၀၆၊ ၇၀၅၊ ၇၀၄၊ ၇၀၃၊ ၇၀၂၊ ၇၀၁--။ |

မြန်မာနိုင်ငံအတွင်း ကျောက်ထက်အက္ခရာတင်ထားသည့် ဓမ္မစေတီဆိုင်ရာဌာနများစွာရှိရာတွင်*၁ ပထမကျောက်စာအများဆုံးချပ်ရေ (၁၇၇၂)ချပ်ရှိသော မန္တလေးမြို့ စန္ဒာမုနိဘုရားဝင်းအတွင်းဖြစ်ပြီး၊ ဒုတိယကျောက်စာချပ်ရေအများဆုံးမှာ ကျောက်ချပ်ရေ (၁၀၈၀) ချပ်ရှိသော စစ်ကိုင်းတိုင်း၊ မင်းကွန်းတောင်ရိုး မိုးမိတ်ကုန်းမြေဖြစ်ပါသည်။ တတိယကျောက်စာအများဆုံး ကျောက်ချပ်ရေ(၁၀၀၅) ချပ်ရှိသည့် ရန်ကုန်မြို့ ကန်ဘဲ့ ပဋ္ဌနိကာယကျောင်းတိုက်အတွင်း ဖြစ်ပါသည်။ စတုတ္ထ ကျောက်ချပ်ရေအများဆုံးမှာ ကျောက်စာချပ်ရေ(၇၉၁) ချပ်ရှိသော ယခု မုံရွာမြို့ မဟာလယ်တီတိုက်ကြီးပင်ဖြစ်ပါသည်။

---

*၁ ဌာနပေါင်း (၂၁)ဌာနရှိပါသည်။

# လယ်တီဆရာတော်ဘုရားကြီး၏ဘဝဖြစ်တော်စဉ်

## [ကောဒသမပိုင်း]

## လယ်တီတရားသတင်းစာ

**ရောင်ခြည်ကားမပျောက်နိုင်**

ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီးသည် နှစ်ကာလရှည်စွာ အထက်အောက်မြန်မာနိုင်ငံအနှံ့သာသနာပြုတော်မူခဲ့ပါသဖြင့် လယ်တီဆရာတော်ဘုရားကြီးကို မကြားဖူးသူ,မသိသူဟူ၍ မရှိခဲ့ပေ။ ထိုစဉ်အချိန်ကာလကဆိုလျှင် ဤနိုင်ငံအတွင်းအမြို့မြို့အရွာရွာတို့တွင် လယ်တီဆရာတော်ကြီးကို တခမ်းတနားပင့်ဆောင်ကြ၍ တရားပွဲကြီးများကျင်းပကြလေ့ရှိပြီး၊ ထိုတရားပွဲကြီးများတွင် တရားအရသာပေါ်လွင်အောင်ဟောကြားတော်မူလေ့ရှိသော လယ်တီဆရာတော်ဘုရားကြီးကို လယ်တီတရားပွဲလာပုဂ္ဂိုလ်မည်သူမဆို မေ့ပျောက်၍ရနိုင်ကြမည်မဟုတ်ပေ။

လယ်တီဆရာတော်ဘုရားကြီးအား ပြည်သူအများလေးစားကြည်ညိုနေကြသည့်အတွက် ဆရာတော်ဘုရားကြီးစံလွန်တော်မူပြီးသည့်အခါ၌ နေမင်းကြီးသည် အနောက်ဂေါယာကျွန်းသို့ တိုးဝင်သွားလင့်ကစား နေရောင်ခြည်မှာလက်ငင်းချက်ချင်း မကွယ်မပျောက် ထွန်းထိန်တောက်ပကျန်ရစ်နေသေးသကဲ့သို့၊ ဆရာတော်ဘုရားကြီး၏ဘုန်းရိပ်ကံရိပ်တို့သည်လည်း နိုင်ငံအနှံ့အမြို့မြို့အရွာရွာတို့၌ လွှမ်းမိုးပတ်ခြုံလျက် တည်ရှိနေဆဲဖြစ်ပါသည်။

လယ်တီဆရာတော်ဘုရားကြီး ဘဝနတ်ထံစံလွန်တော်မူပြီး မုံရွာမြို့၌ လယ်တီဆရာတော်ဘုရားကြီးအထိမ်းအမှတ် လယ်တီကျောက်စာပြတိုက်ကြီးကို တည်ထောင်အံ့ဟု အလှူငွေကောက်ခံကြသောအခါ တိုတောင်းလှသောအချိန်အတွင်းမှာပင် သိန်းနှင့်ချီသောအလှူငွေတို့ကိုကောက်ခံရခဲ့လေရာ မြန်မာနိုင်ငံအတွင်းရှိ အများပြည်သူတို့၏ လယ်တီဆရာတော်ဘုရားကြီးအပေါ်၌ ယုံကြည်အားထားလေးစားကြည်ညိုကြသောစိတ်ဓာတ်ကို မှန်းဆရနိုင်ကြပေလိမ့်မည်။

ဤသို့လျှင် မိခင်ပျောက်သောသားငယ်တို့အလား ဗုဒ္ဓဘာသာဝင်အများပြည်သူတို့စိတ်တွင် လယ်တီဆရာတော်ဘုရားကြီးအား နေ့စဉ်နှင့်အမျှ မမေ့မပျောက်နိုင်ဘဲ တမ်းတမ်းတတဖြစ်နေကြသည်ကို လယ်တီဓမ္မကထိက ဦးဝဏ္ဏိတသည် နယ်လှည့်တရားဓမ္မဟောပြောရင်း သိမြင်သည့်လာအခါ ထိုထိုရှင်လူအပေါင်းတို့စိတ်နှလုံး၌ လယ်တီဆရာတော်ဘုရားကြီးအား မှန်းဆတမ်းတ

Regd. No. R. 358.

စာရေးပညာတွင်-အလွန်ထင်ရှားသော၊
ကမ္ဘာကျော်
ပုဂ္ဂိုလ်ကြီးများ
ရေးသားသည့်၊
တလတကြိမ်ထုတ်

အယ်ဒီတာ{ပဌမကျော်}မောင်စာမောင်။



အဆ္ဆရာယ်ကင်းတံဆိပ်တော်။

THE LEDI
RELIGIOUS INSTRUCTOR,

A BUDDHIST MONTHLY
EDITED & CONTRIBUTED BY
WORLD-KNOWN
RELIGIOUS WRITERS.

# လယ်တီတရားသတင်းစာ

ပဌမတွဲ။ နံပါတ် ၁။ ၁၂၈၈–ခု–ဒုတိယ ဝါဆိုလ။



အမျိုးသားစာပုံနှိပ်တိုက်၊ ၄၇-၅၁-သမ်း၊ ရန်ကုန်မြို့။ တဖခုင်-၈ ပဲ။

ကြသည့် စိတ်ဆန္ဒတို့ ပြေလျော့စေခြင်းငှာ လယ်တီပဏ္ဍိတဦးမောင်ကြီးနှင့်တိုင်ပင်ပြီး လယ်တီဆရာတော်ဘုရားကြီး စံလွန်တော်မူသည့် သုံးနှစ်ပြည့်အခါသမယ အေဒီ ၁၉၂၆–ခုနှစ်၊ ဇူလိုင်လတွင် 'လယ်တီတရားသတင်းစာ' အမည်ဖြင့် တရားသတင်းစာကြီးတစ်စောင်ကို ထုတ်ဝေခဲ့ပါသည်။ လယ်တီတရားသတင်းစာသည် ထွက်လျှင်ထွက်ချင်းပင် စောင်ရေအားဖြင့် အခြားသော သတင်းစာစောင်တို့၏ထိပ်သို့ တစ်ဟုန်ထိုးတက်သွားကာ တိုင်းသိပြည်သိထင်ရှားသော စာစောင်ကြီးအဖြစ် ရောက်ရှိခဲ့ရပါသည်။

**ရှေးရှေးကတရားသတင်းစာများ**

လယ်တီတရားသတင်းစာမတိုင်မီက မြန်မာနိုင်ငံအတွင်း၌ အေဒီ ၁၈၄၃–ခုနှစ်၊ ဇန်နဝါရီလတွင်ထုတ်ဝေသော 'ဓမ္မသီတင်းစာ' သည် အစောဆုံးသော တရားသတင်းစာဖြစ်သည်။ ဓမ္မသီတင်းစာကို အင်္ဂလိပ်ဘာသာဖြင့် 'The Religious Herald' ဟု အမည်ပေးထားသည်။ ထိုသတင်းစာသည် တရားသတင်းစာဆိုသော်လည်း ဗုဒ္ဓဘာသာဆိုင်ရာ တရားသတင်းစာမျိုးမဟုတ်ဘဲ အမေရိကန်နှစ်ခြင်းသာသနာပြုခရစ်ယာန်အဖွဲ့ကထုတ်ဝေသော ခရစ်ယာန်ဘာသာရေးဆိုင်ရာ တရားသတင်းစာမျိုးသာဖြစ်သည်။ အေဒီ ၁၉၀၂–ခုနှစ်တွင် အင်္ဂလိပ်လူမျိုး ရဟန်းတော် ဘိက္ခုအာနန္ဒမေတ္တေယျစီစဉ်သော 'Buddhism' အမည်ရှိ အင်္ဂလိပ်ဘာသာဖြင့် ဗုဒ္ဓဘာသာစာစောင် ထွက်ပေါ်လာပါသည်။ ထို့နောက် အေဒီ ၁၉၀၃–ခုနှစ် မတ်လတွင် 'သာသနာတော်ကျိုးကို ရည်ရွယ်ရင်းမူလအစစ်' ဟူသောရည်ရွယ်ချက်ဖြင့် ထုတ်ဝေသည့် 'မဟာဗောဓိသတင်းစာ' ထွက်ပေါ်လာပါသည်။ ထို့နောက် အေဒီ ၁၉၀၇–ခုနှစ်၊ ဧပြီလတွင် ရန်ကုန်မြို့ ဓမ္မသဝန ဗုဒ္ဓသာသနာပြုအသင်းအတွက် လယ်တီဦးဝါယမစီစဉ်သော 'ဓမ္မဒေသနာတရားသတင်းစာ' ထွက်ပေါ်လာပါသည်။ ဤစာစောင်၌ လယ်တီဆရာတော်ဘုရားကြီး၏သတင်းများ၊ တရားများကို ထည့်သွင်းဖော်ပြခဲ့ဖူးပါသည်။ ထို့နောက်၌ အေဒီ ၁၉၂၆–ခုနှစ်၊ ဇူလိုင်လ (၂၄) ရက်နေ့တွင် လယ်တီဦးဝဏ္ဏိတ၏ လယ်တီတရားသတင်းစာ ပေါ်ထွက်လာခဲ့ခြင်းဖြစ်ပါသည်။*၁

**လယ်တီတရားသတင်းစာ**

အေဒီ ၁၉၂၆–ခုနှစ်၊ ဇူလိုင်လတွင်ပေါ်ထွက်လာသော 'လယ်တီတရားသတင်းစာ (The Ledi Religious Instructor)' သည် သတင်းစာဟုအမည်တပ်ထားသော်လည်း တစ်လတစ်ကြိမ်ထုတ်စာစောင်သာဖြစ်သည်။ တန်ဖိုးမှာ ရှစ်ပဲ၊ စာစောင်အရွယ်အစားမှာ ၁၁"× ၉" ဖြစ်သည်။ အယ်ဒီတာချုပ်မှာ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးဖြစ်ပြီး၊ အယ်ဒီတာမှာ ပထမကျော် မောင်ဘမောင်–ဟုပါရှိသည်။ ပထမအကြိမ်ထုတ် လယ်တီတရားသတင်းစာကို အမှတ်–၄၇၊ ၅၁–လမ်း၊ ရန်ကုန်မြို့ရှိ အမျိုးသားစာပုံနှိပ်တိုက်၌ ရိုက်နှိပ်ခဲ့ပါသည်။

*၁ တက္ကသိုလ်ထင်ကြီး၏ မြန်မာနိုင်ငံသတင်းစာများအညွှန်း၊ ပထမတွဲ။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၁၉၉၂–ခုနှစ်။ (စာမျက်နှာ–၁၇၊ ၁၁၇၊ ၁၂၀၊ ၂၁၃)။ အေဒီ ၁၈၈၈–ခုနှစ်က ပိဋကတ်သတင်းစာအမည်ဖြင့် သတင်းစာတစ်စောင် ထုတ်ဝေခဲ့ဖူးပါသည်။ ယင်း။ (စာမျက်နှာ–၇၉)။ အေဒီ ၁၉၀၂–ခုနှစ်ကထုတ်ဝေသော ဟံသာဝတီသတင်းစာမှာလည်း တရားဒေသနာအကြောင်း များစွာပါရှိသောသတင်းစာဖြစ်ပါသည်။ ယင်း။ (စာမျက်နှာ–၈၇)။

## လယ်တီတရားသတင်းစာထုတ်ဝေရခြင်းအကြောင်း

လယ်တီတရားသတင်းစာထုတ်ရခြင်း၏အကြောင်းအတ္တုပ္ပတ္တိကို လယ်တီပဏ္ဍိတ ဆရာဦးမောင်ကြီးက ရှေးဦးပထမထုတ်ဝေသော လယ်တီတရားသတင်းစာ ပထမတွဲ၊ အမှတ်-၁ စာစောင်၌-

'တရားဒေသနာ အလျှံဝါထွန်းပြောင် အလင်းရောင်များကို ဤကမ္ဘာလောကကြီးအတွင်းမှာ ထွန်းလင်းထိန်ပြောင် အရောင်ဟပ်သည့်ထက် ဟပ်စေလိုသော သဘောသွားကို အစဉ်သဖြင့်ရှေ့ထားလျက် ဤလယ်တီတရားသတင်းစာကို ထုတ်ဝေရပေသည်' ဟူ၍ရှေးဦးရည်ရွယ်ချက်ကို ဖော်ပြထားခဲ့သည်။*၁

ထို့နောက် အခြားရည်ရွယ်ချက်တစ်ရပ်ကိုလည်း-

'ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ ဂုဏ်တော်နှင့် အမည်သညာတော်များကို ပျောက်ပျက်တိမ်ကောခြင်းမရှိစေဘဲ အစဉ်သဖြင့်ထွန်းတောက်၍ မြင့်မောက်ဖြိုးဖြိုး ကမ္ဘာအဝှမ်းကို လွှမ်းမိုးစေလိုသောဆန္ဒကြောင့် ဤတရားသတင်းစာကို 'လယ်တီ' ဟူသော အမည်နာမကို ပထမရှေ့ဆုံး၌တွဲဆက်တပ်ဆင်၍ထားပြီးလျှင် 'လယ်တီတရားသတင်းစာ' ဟူသောအမည်ကို ဘွဲ့ချီသမုတ်ရသည်ဖြစ်ပါသတည်း' ဟူ၍ ရေးသားဖော်ပြထားပြန်ပါသည်။*၂

## လယ်တီတရားသတင်းစာ၌ပါဝင်မည့်အကြောင်းအရာများ

လယ်တီတရားသတင်းစာတွင် လစဉ်လစဉ်ထည့်သွင်းဖော်ပြမည့်အကြောင်းအရာများနှင့် စပ်လျဉ်း၍ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးက ဆက်လက်၍ ရေးသားထားသည်မှာလည်း အောက်ပါအတိုင်းဖြစ်သည်။

၁။ သာသနာတော်နှင့်ဆိုင်သောအချက်များ၊

၂။ တရားဒေသနာနှင့်ဆိုင်သောအချက်များ၊

၃။ မြန်မာပြည်တွင် ထင်ရှားကျော်စောတော်မူခဲ့ကြသော ဆရာတော်ကြီးတို့နှင့် ဆိုင်သောအချက်များ၊

၄။ စေတီ, ပုထိုး, ဂူကျောင်း, ဘုရား, ကျောက်စာမှစ၍ သာသနာ့အဆောက်အအုံနှင့်သက်ဆိုင်သောအချက်များ၊

၅။ ပါဠိတော်, အဋ္ဌကထာ, ဋီကာမှစ၍ ပိဋကတ်ကျမ်းဂန်တို့နှင့် သက်ဆိုင်သော အချက်များ၊

---

*၁ လယ်တီတရားသတင်းစာ၊ ပထမတွဲ၊ နံပါတ်-၁။ (စာမျက်နှာ-၂)။

*၂ ယင်း။ (စာမျက်နှာ-၃)။



# လယ်တီတရားသတင်းစာ

၁၂၇၈—ခု၊ဒုတိယဝါဆိုလ။ ပထမတွဲ။ နံပါတ်—၁။



(လယ်တီပဏ္ဍိတ—ဆရာဦးမောင်ကြီး။)

## လယ်တီတရားသတင်းစာထုတ်ရခြင်း၏အကြောင်းအဋ္ဌုပ္ပတ္တိ။

---

တရားတော်-ဆိုသည်မှာ၊ အနန္တကမ္ဘာမဟာလောကခါတ်ကြီး၏ မိုခိုရာ အစစ်ကြီး ဖြစ်တော် မူပေသည်၊ ဓမ္မသရဏံဂစ္ဆာမိ-ဆိုသော သရဏ ဂုဏ်တော် ကြီးသည်၊ အနန္တကမ္ဘာလောကဓါတ်နှင့် သက်ဆိုင်သော သရဏဂုဏ်တော်ကြီးဖြစ်ပေသည်၊

အခြားသူများကိုမဆိုထားဘိဦး၊ ဉေယျဓမ်ငါးရုံကို အကုန်သိမြင်တော်မူသော၊ သဗ္ဗညုရှင်တော်မြတ်ဘုရားပင်သော်မှ တရားကိုအားထား မှီခိုရာပြု၍၊ နေတော်မူကြောင်းနှင့်၊အင်္ဂုတ္တိုရ်ပါဠိတော်ကြီးမှာ၊ရှင်တော်ဘုရားကိုယ်တိုင်ဟောကြားတော်မူခဲ့ပေသည်၊

R 1.

အမြွက်မျှပြဆိုပါဦးမည်၊ ၊ရှင်တော်ဘုရားသည်၊ တရံသောအခါ၊ သဗ္ဗညုတဉာဏ်ဖြင့် ဆင်ခြင်တော်မူလျက်၊ "ဤလောကကြီးသည်၊မှီခိုအားထားရာအကြီး အကဲမရှိလျှင်မသင့်လျော်ချေ။မှီခိုအားထားရာရှိမှသာလျှင်၊ သင့်လျော်ပေသည်။ ၊ငါဘုရားသည်သည်း၊ တရားကိုမှီခိုအားထားရာအကြီး အမှူးပြု၍စံနေတော်မူအံ့"၊ဤသို့ အကြံဖြစ်တော်မူလေသည်။ ။သို့ဖြစ်၍၊ ရှင်တော်မြတ်ဘုရားကြီးသော်မှ၊ တရားတော်ကိုအမှီပြု၍ စံနေတော်မူကြောင်းကောင်းစွာထင်ရှားလေသတည်း၊

တရားတော်သည်ကမ္ဘာလောကဓါတ်ကြီး၏အလင်းရောင်အစစ်လည်းဖြစ်တော်မူပေသည်၊ ၊နေရောင်,လရောင်, ကြယ်ဘာရာရောင်, ရတနာရောင်, မီးရောင်,စသောအရောင်အလင်းတို့သည်၊ အပြင်ဗဟိဒ္ဓသာထွန်းလင်းတောက်ပစေနိုင်၏၊သတ္တဝါတို့၏အတွင်းစိတ်ဓာတ်သို့ထိုးခိုက်အောင်၊ ထွန်းပြောင်ထိန်လင်း နိုင်စေသည်မဟုတ်ကြလေကုန်။ တရားတော်တည်းဟူသော အလင်းသည်သာလျှင်၊ အတွင်းစိတ်သန္တာန်သို့ထိုးခိုက်အောင်၊ ထွန်းပြောင်ထိန်သင်းနိုင်ပေသည်။ထိုကြောင့်တရားတော်များကိုကမ္ဘာ၏အလင်းခါတ်အစစ်ကြီးဟူ၍ ဆိုရပေသတည်း။

"တိမ်ခိုးမြူမှောင်သန်းခေါင်လကွယ်၊တောအုပ်လယ်" ဟုဆိုအပ်သော အမှောင်များသည်၊ ဗဟိဒ္ဓအပအမှောင်များသာဖြစ်ချေ၏၊ ပယ်ရှားရန်ခဲခက်လှသည်မဟုတ်ချေ။ မီးရောင်နေရောင်စသည်တို့လာလျှင်၊ အလိုအလျောက်ပပျောက်ကြရလေသည်၊ ဆိုခဲ့ပြီးသော ဗဟိဒ္ဓမှောင်များသည်၊အမြဲထာဝရတည်နေကြသည်လည်း မဟုတ်ကုန်၊ ခေတ္တခဏတာဝကာလိကမှောင်တို့သာ ဖြစ်ကြလေကုန်သည်။(မြတ်တုတ်မြတ်တုတ်နှင့်မှောင်ချည်တခါထင်းချည်တခါနေကြသောမှောင်များဟုဆိုလိုသည်၊)

အနန္တကမ္ဘာ၊ အနန္တပုထုဇန်သတ္တဝါတို့၏ အတွင်းသန္တာန်၌ရှိသောအဝိဇ္ဇာမှောင်ဓာတ်သည်ကား၊ အတိုင်းမသိ၊ အနှိုင်းမရှိ၊ အဓိပတိမိုက်မှောင်သော၊ မှောင်တုံးမှောင်လုံး၊ မှောင်ခဲအစစ်ကြီးဖြစ်ချေ၏၊ ။ထိုအဝိဇ္ဇာမှောင်တိုက်ကြီးကို၊မီးရောင်နေရောင်။ကြယ်တို့သနင်းလမင်းအရောင်၊ဥက္ကာပျံမြူး၊မီးရှူးအရောင်၊ရတနာရောင်တို့ဖြင့်ဖြိုဖျက်နိုင်သည်မဟုတ်ချေ၊

၆။ ပိဋကတ်တော်တွင်အကျုံးဝင်၍ ပညာဗဟုသုတအမျိုးမျိုးကို တိုးပွားစေနိုင်သော အမေးပုစ္ဆာ, အဖြေဝိသဇ္ဇနာတို့နှင့်သက်ဆိုင်သောအချက်များ၊

၇။ နိုင်ငံခြားတို့၌ ဗုဒ္ဓသာသနာတော်နှင့်သက်ဆိုင်သောအချက်များ၊

၈။ ရှေးရှေးပညာရှိပုဂ္ဂိုလ်တို့ ရေးသားအပ်သော စာဟောင်းပေဟောင်းတို့နှင့် သက်ဆိုင်သောအချက်များ၊

၉။ ယခုခေတ်ကာလ၌ ရေးသားသီကုံးကြသော တရားကျမ်းဂန်နှင့် စပ်လျဉ်းသည့် ကဗျာလင်္ကာများ၊

၁၀။ တစ်လ, တစ်လအတွင်း၌ ကမ္ဘာပေါ်တွင် အထင်အရှား မှတ်သားလောက်အောင် ဖြစ်ပေါ်လာသော ကမ္ဘာ့သတင်းထူးများကို ဓမ္မသံဝေဂဉာဏ်နှင့် နှိုင်းယှဉ်၍ ဖော်ပြသောအချက်များ၊

၁၁။ ရှင်တော်ဘုရားကိုယ်တော်တိုင် ပိဋကတ်သုံးပုံ၌ လူနတ်ဗြဟ္မာ သတ္တဝါအပေါင်းတို့အား အလိမ္မာပွားများရန် ညွှန်ကြားတော်မူအပ်သော နီတိသဘောများကို အရာအားလျော်စွာ သိသာထင်လင်းအောင် ရေးသားသော တိပိဋကနီတိများ။

ဤသို့စသောအချက်ကြီးများကို အရင်းပဓာနထား၍ သာသနာတော်ကို အကျိုးပြုသည့် စာပေအမျိုးမျိုးတို့ကို အစဉ်သဖြင့် ရေးသားဖော်ပြသွားပါမည်-ဟူ၍ဖြစ်ပါသည်။*၁

**လယ်တီတရားသတင်းစာ၏ မျက်နှာဖုံး**

လယ်တီတရားသတင်းစာ၏မျက်နှာဖုံးသည် အချယ်အလှယ်အမွမ်းအမံမရှိဘဲ ပကတိရိုးစင်းလှသည်။ လယ်တီတရားသတင်းစာထုတ်ဝေသည့်ခေတ်ကား မျက်နှာဖုံးအလှပြိုင်ကြသောခေတ်မျိုးမဟုတ်သေး။ ဆေးရောင်စုံဘလောက်များလည်း အလွန်ထွန်းကားမပေါ်သေးရကား နံ့သာရောင် မျက်နှာဖုံးတွင် ရိုးရိုးမင်နက်ဖြင့် 'ပညာ သမာ အာဘာ နတ္ထိ' ဆိုသောစာလုံးများနှင့် 'ဘဂဝါ' ဟူသောစာလုံးပါရှိသည့် အန္တရာယ်ကင်းတံဆိပ်တော်တစ်ခုကိုသာ လစဉ်မပြောင်းမလဲ အမြဲထည့်သွင်းပုံနှိပ်ပေးခြင်းဖြင့်ပင်လျှင် မျက်နှာဖုံးပြင်ဆင်မှုကိစ္စ ပြီးစီးခဲ့ပေသည်။

ထိုအခါက စာရှုသူများအဖို့ စာစောင်၏မျက်နှာဖုံးအလှအပထက် အတွင်းစာသားများတွင် ဘယ်သူဘယ်ဝါတို့ ပါဝင်ရေးသားသည်ဆိုသောအချက်က ပိုမို၍အရေးကြီးပေသည်။ သို့ကြောင့်လည်း မျက်နှာဖုံးပေါ်တွင်ပင်လျှင် 'စာရေးပညာတွင် အလွန်ထင်ရှားသော ကမ္ဘာကျော်ပုဂ္ဂိုလ်ကြီးများ ရေးသားသည့် တစ်လတစ်ကြိမ်ထုတ် လယ်တီတရားသတင်းစာ' ဟူသောစာတမ်းကို အန္တရာယ်ကင်းတံဆိပ်တော်၏ လက်ဝဲဘက်၌ မြန်မာလို၊ လက်ယာဘက်၌ အင်္ဂလိပ်လို 'A Buddhist Monthly Edited & Contributed by World Known Religious Writers' ဟူ၍ဖော်ပြထားခြင်း ဖြစ်ပေသည်။

---

*၁ လယ်တီတရားသတင်းစာ၊ ပထမတွဲ၊ နံပါတ်-၁။ (စာမျက်နှာ-၃)။

ပွဲဦးထွက်လယ်တီတရားသတင်းစာ အမှတ်-၁ စာစောင်၏မျက်နှာဖုံးထိပ်တွင် အယ်ဒီတာ ပထမကျော်မောင်ဘမောင်ဟူသောအမည်ပါရှိပြီး 'လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး ပုံနှိပ်ထုတ်ဝေသည်' ဟူသောစာတန်းကို အင်္ဂလိပ်ဘာသာဖြင့် ကျောဘက်အဖုံးအောက်ခြေတွင် ဖော်ပြခဲ့၏။[*၁]

လယ်တီတရားသတင်းစာမျက်နှာဖုံးအထက်ပိုင်း၌ အင်္ဂလိပ်ရာဇဝင်းတံဆိပ်နှင့် စာစောင်အတွဲ၊ အမှတ် စသည်တို့ကိုဖော်ပြထားပြီး၊ အောက်ပိုင်းတစ်ဝက်သာသာ၌ ကြော်ငြာတစ်ခုခုကိုထည့်သွင်းဖော်ပြထားပါသည်။ သာဓကအားဖြင့် တရားသတင်းစာ ပထမတွဲ၊ အမှတ်-၁ ၏ မျက်နှာဖုံးတွင် ဒိဗ္ဗောသဓဆေးတိုက်ကထုတ်သော လေနိုင်ဆီးဝမ်းနုတ်ဒိဗ္ဗောသဓအသက်ရှည်တေဆေးကြီးကို ထည့်သွင်းကြော်ငြာထားပါသည်။ စာစောင်အမှတ်-၂ နှင့် အမှတ်-၃ တို့တွင် ဒိဗ္ဗောသဓဆေးတိုက်ကပင်ထုတ်သော ဒိဗ္ဗောသဓအောယုသိဒ္ဓိအားတိုးဆေးကြီးကိုကြော်ငြာထားပြန်ပါသည်။ စာစောင်အမှတ်-၄ တွင် စာစောင်အမှတ်-၁ ၌ကြော်ငြာခဲ့သော ဒိဗ္ဗောသဓ လေနိုင်ဆီးဝမ်းနုတ်အသက်ရှည်ဆေးကို ပြန်လည်ကြော်ငြာထားကြောင်းတွေ့ရသည်။

လယ်တီတရားသတင်းစာ၌ ကြော်ငြာထည့်ခြင်းနှင့်စပ်၍ မူများရှိပါသည်။ အရက်ကြော်ငြာ၊ ပဋိသန္ဓေတားဆေးကြော်ငြာ၊ ဖိနပ်ကြော်ငြာများကို လက်မခံခဲ့ပေ။ အရက်ကြော်ငြာရှင်ကဆိုလျှင် အခြားကြော်ငြာရှင်များထက် ကြော်ငြာခကိုပို၍ တစ်မျက်နှာ ၁၀၀-ကျပ်နှုန်းအထိပေး၏။ တရားသတင်းစာက လက်မခံခဲ့ချေ။ ပဋိသန္ဓေတားဆေးကြော်ငြာကိုကား အသက်ဇီဝိန်ကိုချွေရာရောက်နေသော ဆေးတစ်မျိုးဖြစ်ခြင်းကြောင့် လယ်တီတရားသတင်းစာက ထည့်ပင်မစဉ်းစားခဲ့။ တစ်ဖန် ဖိနပ်ကြော်ငြာကို သာမန်အားဖြင့်ကြည့်က ဘာအပြစ်မှမရှိ၊ ထည့်သင့်သော ကြော်ငြာမျိုးဖြစ်သည်ဟု လူအများက ယူဆနိုင်သော်လည်း တရားသတင်းစာပိုင်ရှင် လယ်တီဦးလှတင် (ဦးဝဏ္ဏိတ) ကမူ 'ထည့်လို့ ဘယ်ဖြစ်မလဲ...၊ ဆရာတော်ကြီးတွေရဲ့ပုံက အောက်က၊ ဖိနပ်ကြော်ငြာက အထက်ကဖြစ်နေရင် မခက်လား' ဟု ဦးလှတင် (ဦးဝဏ္ဏိတ) က ထိုကြော်ငြာငြင်းပယ်ရမှုအတွက် အကြောင်းပြခဲ့လေသည်။ ရိုသေမှု၊ ကိုင်းညွတ်မှု၊ အလေးအမြတ်ပြုမှုတို့ကို တရားသတင်းစာတစ်စောင်အနေဖြင့် ရိုးရိုးစာနယ်ဇင်းများထက် ထူးကဲပိုမိုစွာပြုလုပ်ရမည်မှာ ဓမ္မတာဖြစ်သည့်အတိုင်း လယ်တီတရားသတင်းစာ ဒုတိယတွဲ အမှတ်-၁၈ ၏ မျက်နှာဖုံး၌ 'မြင့်မြတ်ရာဌာနတွင် ထားတော်မူကြပါ။ တစ်အုပ် ၈-ပဲ' ဟု 'တူးလိုင်း' စာလုံးကြီးများဖြင့် ရိုက်နှိပ်ထားသည်မှာလည်း မထူးဆန်းပေ။[*၂]

---

[*၁] အမှတ်(၁၉)သို့ရောက်သည့်အခါ ရှေ့မျက်နှာဖုံးအောက်ခြေတွင် 'အယ်ဒီတာ ပါဠိဆရာချစ် ကြီးကြပ်ပြင်ဆင်သည်' ဟူသော အယ်ဒီတာ၏ အမည်ပြောင်းလဲလာသည်ကို တွေ့မြင်ရပေသည်။ မောင်တင်မောင်၏ လူထုအလိုမလိုက်သော သတင်းစာများ၊ (ဆောင်းပါး)။ စာပေဗိမာန်စာစောင်။ အမှတ်-၂။ (စာမျက်နှာ-၆၃၊ ၆၄)။

[*၂] ယင်း။ (စာမျက်နှာ-၆၄)။

**လယ်တီတရားသတင်းစာ၏ စာပေလက်ရာ**

လယ်တီတရားသတင်းစာ၏ အယ်ဒီတာချုပ်မှာ ထိုခေတ်က မြန်မာစာပေသရဖူ၏ထိပ်၌ ဝင့်ကြွားစွာတည်နေသည့် စိန်တုံးကြီးပမာ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးဖြစ်ပါသည်။ ဆရာဦးမောင်ကြီးသည် လယ်တီတရားသတင်းစာ၌ လစဉ်ပင်ခေါင်းကြီးဆန်ဆန် သာသနာပြုဆောင်းပါးတစ်ပုဒ်၊ တိပိဋကနီတိခေါ် နီတိဆောင်းပါးတစ်ပုဒ်နှင့် အခြားဆောင်းပါးတစ်ပုဒ်စသည် တစ်လလျှင် သုံးပုဒ်ခန့်ရေးသားခဲ့ပါသည်။ ဤသို့ရေးသားရာတွင် တိပိဋကနီတိ၊ ဘာဝဂါဂီတိ၊ ဝိမာနဝတ္ထု မြန်မာပြန် စသည်တို့မှာ အခန်းဆက်ဆောင်းပါးရှည်ကြီးများဖြစ်သည်။

လယ်တီတရားသတင်းစာကြီးတွင် ရန်ကုန်ချောင်ဦးဝမ္မစာရီ၊ လယ်တီဦးဝဏ္ဏိတ၊ လယ်တီဦးခေမိန္ဒ၊ လယ်တီဦးပဒုမ၊ လယ်တီဦးဝါယမ၊ ဒုတိယလယ်တီဆရာတော် ဦးဉာဏောဘာသ၊ လယ်တီဦးကောသလ္လ၊ လယ်တီဦးနာရဒ၊ လယ်တီဦးဇဋိလ၊ လယ်တီဦးဝိမလ၊ လယ်တီဦးကိတ္တိစသည့်လယ်တီအသိုင်းအဝန်းမှနာမည်ကျော်ပုဂ္ဂိုလ်များက ပါဝင်ရေးသားကြသကဲ့သို့ လယ်တီဆရာတော်ဘုရားကြီးအားကြည်ညိုကြသော ပြင်ပကလောင်ရှင်ကြီးများဖြစ်သည့် အရှင်ဥက္ကဋ္ဌ၊ မိုလ်ကလေးဦးကုသလ၊ ပါဠိဆရာဝ၊ ကန်ကလေးတောရ ဦးသြဘာသိတ၊ ဝိသုဒ္ဓါရုံအရှင်ပညိန္ဒ၊ ပခုက္ကူဦးအဂ္ဂဝံသ၊ ကာမမြို့ အင်းကြီးကုန်းဆရာတော်၊ ရွှေဟင်္သာစံကျောင်း အရှင်အာလောက (နောင်ဆရာကြီးဦးအုန်းရွှေ)၊ ကျိုက္ကစံဦးအာစာရတို့လည်း ပါဝင်ရေးသားခဲ့ကြပါသည်။

လယ်တီတရားသတင်းစာထွက်ပေါ်စအခါက စာစောင်တွင်ပါဝင်ရေးသားသော စာပေပညာရှင်များနှင့် စာပေဆောင်းပါးအမည်အချို့ကိုလည်း ကောက်နုတ်တင်ပြလိုပေသည်။

**လယ်တီတရားသတင်းစာတွင်ပါဝင်သောအကြောင်းအရာများ**

(က) လယ်တီတရားသတင်းစာ၊ ပထမတွဲ၊ အမှတ်-၁ စာစောင်တွင် စာမျက်နှာ (၅၀) ကျော်ပါရှိပြီး ဖော်ပြထားသောအကြောင်းအရာများမှာ အောက်ပါအတိုင်းဖြစ်သည်။

၁။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ လယ်တီတရားသတင်းစာထုတ်ရခြင်း၏ အကြောင်းအဋ္ဌုပ္ပတ္တိ၊

၂။ အက်စဘီ၊ ဥက္ကဋ္ဌ[*၁] ၏ သခေ်ပဗုဒ္ဓသာသနာဝင်၊

၃။ ကျိုက္ကစံဦးအာစရ၏ စက်တရားတော်၊

၄။ လယ်တီဦးပဒုမ၏ သေလာပဒါန်ပါဠိတော်အနက်မြန်မာပြန်ဆိုချက်၊

၅။ စစ်ကိုင်းတောင်ရိုး ရန်ကုန်ချောင်ဆရာတော် ဦးဝမ္မစာရီ၏ ကံတရား၊ ဈာန်တရား၊ ဉာဏ်တရားတော်၊

၆။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ တိပိဋကနီတိ၊

၇။ လယ်တီဦးဝဏ္ဏိတ၏ ခန္ဒာငါးပါးတရားတော်၊

---

[*၁] နောင်အခါ တောင်တွင်းကြီးအရှင်ဥက္ကဋ္ဌအဖြစ် ထင်ရှားခဲ့ပါသည်။

၈။ လယ်တီဦးကိတ္တိ၏ ကမ္မသကတဉာဏ်အလင်းတရားတော်၊
၉။ လယ်တီဦးဝါယမ၏ ဝါဆိုတရားတော်၊
၁၀။ လယ်တီတိုက်အုပ်ဆရာတော်၏ သဗ္ဗဖေယျမင်္ဂလာဂါထာတော်ကြီးနှင့်
၁၁။ လယ်တီဦးဝါယမ ဆရာမြို့၏ လယ်တီတရားသတင်းစာ၏ အဋ္ဌုပ္ပတ္တိ စာတမ်း-တို့ ဖြစ်ကြပါသည်။

(ခ) လယ်တီတရားသတင်းစာ ပထမတွဲ၊ အမှတ်-၂ တွင်မူ အောက်ပါအကြောင်းများ ပါဝင်ကြောင်း တွေ့ရှိရပါသည်။

၁။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ မိမိကိုယ်သာ မှီခိုရာ အတ္တဒီပနီ တရားတော်၊
၂။ လယ်တီဦးဝါယမကိုယ်တော်၏ ဝါတွင်းတရားတော်၊
၃။ ကျိုက္ကစ်ဦးအာစရ၏ သုတ်ပါထေယျပါဠိတော်၊ လက္ခဏာသုတ် လက္ခဏာ တော်အမေးအဖြေ၊
၄။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ တိပိဋကနီတိ၊
၅။ လယ်တီဦးကိတ္တိ၏ ကမ္မသကတဉာဏ်အလင်းတရားတော်၊
၆။ လယ်တီဦးပဒုမ၏ အပဒါန်ပါဠိတော်အနက်မြန်မာပြန်ဆိုချက်၊
၇။ ဆရာတော်ဦးဉက္ကဋ္ဌ၏ သခ်ေပဗုဒ္ဓသာသနာဝင်၊
၈။ ဝိသုဒ္ဓါရုံမြေ့ကထိကဦးပညိန္ဒ၏ နယဂ္ဂါဟဒေသနာ၊
၉။ ပါဠိဆရာဝ၏ သာသနာ့စက္ခုအလင်းပြ၊
၁၀။ ဆရာတော်ဦးစန္ဒောဘာသထံမှပေးပို့တော်မူသောတရားတော်၊
၁၁။ မနောသိဒ္ဓိ၏ သီရိတေဇမင်္ဂလာဂါထာတော်ကြီး၊
၁၂။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ဘဂဝါဂီတိနှင့်
၁၃။ ဦးဘိုးစော၏ ပုစ္ဆာကဏ္ဍ-သာသနာတော်နှင့်စပ်လျဉ်း၍ မေးသောအမေးပုစ္ဆာတို့ ဖြစ်ကြပါသည်။

(ဂ) လယ်တီတရားသတင်းစာ ပထမတွဲ၊ အမှတ်-၃ တွင် ပါဝင်သော အကြောင်းအရာ များမှာ အောက်ပါအတိုင်းဖြစ်သည်။

၁။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ဗုဒ္ဓသာသနာတော်ကြီးအတွင်း မှုရင်း ကသိုလ်ကြီးသုံးမျိုးအကြောင်း၊
၂။ လယ်တီဦးဝါယမ၏ ဝါဆိုတရားတော်၊
၃။ ဝိသုဒ္ဓါရုံမြေ့ကထိကဦးပညိန္ဒ၏ အာရက္ခဒေသနာတော်၊
၄။ ကျိုက္ကစ်ဦးအာစရ၏ သုတ်ပါထေယျပါဠိတော်မှထုတ်နုတ်၍ စက္ကပူရိတ လက္ခဏာတော်အကြောင်း အမေးအဖြေ၊

၅။ ဆရာတော်ဦးဥက္ကဋ္ဌ၏ သင်္ခေပဗုဒ္ဓသာသနာဝင်၊

၆။ ဦးဓမ္မစာရီ၏ သုဓမ္မာလွှတ်တော်မင်းကြီးရုံးတော်၊

၇။ ဆရာတော်ဦးဥက္ကဋ္ဌ၏ ယေရှုခရစ်သည် ဗုဒ္ဓဘာသာတရားတော်ကို သင်ပြီးမှ ဘာသာအသစ်တည်ထောင်သည်မဟုတ်ပါလော၊

၈။ ပါဠိဆရာဝ၏ သာသနာ့စက္ခုအလင်းပြ၊

၉။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ တိပိဋကနီတိ၊

၁၀။ လယ်တီဦးခေမိန္ဒ၏ တရားသတင်းစာ၏အကျိုးကြီးကျယ်ပုံတရားတော်၊

၁၁။ လယ်တီဦးဝိမလ၏ သာသနာပညာရေးအကြောင်း၊

၁၂။ လယ်တီဦးကောသလ္လ၏ သမ္ဗုဒ္ဓစာနဟောကိန်းကြီး၊

၁၃။ နေရှင်နယ်ဦးကေတု၏ ဓမ္မစကြ်ဂါထာတော်နှင့် အနန္တရာယ်ကင်းဂါထာတော်နှင့်

၁၄။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ဘဂဝါဂီတိ–တို့ဖြစ်ကြပါသည်။

(ဃ) လယ်တီတရားသတင်းစာ ပထမတွဲ၊ နံပါတ်–၄ တွင် ပါဝင်သော အကြောင်းအရာများမှာ အောက်ပါအတိုင်းဖြစ်သည်။

၁။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ဘဂဝါဂီတိ၊ *၁

၂။ ကန်ကလေးတောရဦးသြဘာသိတ၏ ထုတိဂါထာ၊

၃။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ လမြတ်အထွတ်သီတင်းကျွတ်၊

၄။ ဝိသုဒ္ဓါရုံဓမ္မကထိကဦးပညိန္ဒ၏ မိုလ်ချုပ်ဒေသနာ၊

၅။ ဆရာတော်ဦးဥက္ကဋ္ဌ၏ သင်္ခေပဗုဒ္ဓသာသနာဝင်၊

၆။ ဦးဓမ္မစာရီ၏ ဆုတ်ကပ်ကာလတရားကြီး၊

၇။ ပါဠိဆရာဝ၏ သာသနာ့စက္ခုအလင်းပြ၊

၈။ ကျိုက္ကစံဦးအာစရ၏ သုတ်ပါထေယျပါဠိတော်မှထုတ်နုတ်၍ စက္ကဝတ္တိလက္ခဏာတော်အကြောင်း အမေးအဖြေ၊

၉။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ တိပိဋကနီတိ၊

၁၀။ ရောင်ခြည်တော်ဘုရားရှိခိုးနှင့် ဦးအာစရလက်စွဲတရားတော်၊

၁၁။ လယ်တီဦးခေမိန္ဒ၏ သစ္စာလေးပါးတရားတော်၊

၁၂။ ဆရာတော်ဦးဥက္ကဋ္ဌ၏ ဗုဒ္ဓဘာသာနှင့်အခြားဘာသာများ၊

၁၃။ မိုလ်ကလေးဦးကုသလ၏ ဉာဏ်သုံးပါးတရားတော်နှင့်

---

*၁ ဘဂဝါဂီတိကို ဤစာစောင်မှစ၍ ခေါင်းကြီးဆောင်းပါးအဖြစ် ထည့်သွင်းသုံးစွဲထားကြောင်း ရေးသားထားပါသည်။

## လယ်တီဘာရားသတင်းစာတွင်ပါဝင်ရေးသားကြသောပုဂ္ဂိုလ်များ


ဦးဉာဏောဘာသ


ဦးနာရဒ


လယ်တီဦးဝိမလ


ဝိသုဒ္ဓါရုံဦးပညိန္ဒ


လယ်တီဦးဝဏ္ဏိတ


ဦးကိတ္တိ


ဦးဝါယမ


ဦးဥက္ကဋ္ဌ


ကျိုက္ကစံဦးအာစာရ


ရန်ကုန်ချောင်ဦးဓမ္မစာရီ


လယ်တီဦးပဒုမ


လယ်တီပဏ္ဍိတဦးမောင်ကြီး

၁၄။ လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ ဝိမာနဝတ္ထုဘာသာပြန်–စသည်တို့ ဖြစ်ကြပါသည်။

**လယ်တီပဏ္ဍိတနှင့် လယ်တီဝဏ္ဏိတ**

လယ်တီတရားသတင်းစာနှင့်စပ်လျဉ်း၍ ဆောင်းပါးရှင် မောင်တင်မောင်ဆိုသူက စာပေဗိမာန် မဂ္ဂဇင်း၌ 'လူထုအလိုမလိုက်သောသတင်းစာများ' ဆောင်းပါးတွင် လယ်တီတရားသတင်းစာ ကိုအုပ်ချုပ်သူ လယ်တီပဏ္ဍိတဦးမောင်ကြီးနှင့် လယ်တီတရားသတင်းစာကို တည်ထောင်သူ လယ်တီဝဏ္ဏိတတို့၏အကြောင်း အတွင်းရေးအနေဖြင့် မှတ်သားဖွယ်တို့ကို အောက်ပါအတိုင်း ရှင်းလင်းရေးသားခဲ့ဖူးလေသည်။

ရဟန်းတော်အရှင်အာနန္ဒမေတ္တေယျထုတ်ဝေခဲ့သော အင်္ဂလိပ်တရားသတင်းစာ Buddhism၊ ၎င်းနောက် ရဟန်းတော်ဓမ္မကထိက လယ်တီဦးဝါယမကိုယ်တော် စတင်ထုတ်ဝေခဲ့သော 'ဓမ္မဒေသနာတရားသတင်းစာ'၊ ထိုတရားသတင်းစာ နှစ်စောင် မရှိတော့သည့်နောက် ၁၂၈၈–ခု၊ ဒုတိယဝါဆိုလပြည့် (၁၉၂၆–ခု၊ ဇူလိုင်လ ၂၄ ရက်) စနေနေ့၌ ရဟန်းတော်လယ်တီဦးဝဏ္ဏိတ ထူထောင်သော 'လယ်တီတရား သတင်းစာ' ထွက်ပေါ်လာပြန်လေသည်။

လယ်တီဦးဝဏ္ဏိတကား လယ်တီပဏ္ဍိတဦးမောင်ကြီးနှင့်ဆိုလျှင် အမေညီအစ်မ အရင်းမှမွေးဖွားခဲ့သော ညီအစ်ကိုတစ်ဝမ်းကွဲတော်သူတစ်ဦးဖြစ်လေရာ*၁ လယ်တီ တရားသတင်းစာကိုထုတ်ဝေရာ၌ ဦးဝဏ္ဏိတသည် ဆရာဦးမောင်ကြီးကို အားအကိုး ဆုံးဖြစ်၏။ ထို့ကြောင့် ၎င်းက ရဟန်းဝတ်နှင့်ပင် လယ်တီတရားသတင်းစာကို ကြီးကြပ်လျက်၊ ဆရာဦးမောင်ကြီးအား လယ်တီတရားသတင်းစာတစ်စောင်လုံးကို တည်းဖြတ်အုပ်ချုပ်လုပ်ကိုင်စေရန် လွှဲအပ်ခဲ့လေသည်။ လယ်တီတရားသတင်းစာ သုံးပတ်မျှထုတ်ဝေမိလျှင်ပင် ဆရာဦးမောင်ကြီးသည် အလုပ်တိုက်သို့မဆင်းတော့ဘဲ မိမိနေရာ ရန်ကုန်မြို့ ၅၃–လမ်းတိုက်မှနေ၍ လယ်တီတရားသတင်းစာကို အုပ်ချုပ် လုပ်ကိုင်တော့သည်။ 'လယ်တီပဏ္ဍိတဆရာဦးမောင်ကြီးသည် စာကိုသာ တွင်ကျယ် စွာ ရေးလေ့ရေးထရှိသည်။ အလုပ်တိုက်ကို နိုင်နင်းစွာအုပ်ချုပ်နိုင်ကြောင်း ထင်ရှား သည်'ဟု လယ်တီဦးလှတင်က စာပေဗိမာန်မဂ္ဂဇင်းအယ်ဒီတာအဖွဲ့၏ တောင်းပန် ချက်အရ သထုံမြို့မှနေ၍ အယ်ဒီတာအဖွဲ့သို့ပြန်ကြားလိုက်သောစာတွင် မှတ်ချက် စကား ရေးသားထားပေသည်။

ဆရာဦးမောင်ကြီးမှာ စာဆိုမှုစာသက်သက်ကိုသာ ရေးလိုသူဖြစ်၏။ ပုံနှိပ် ထုတ်ဝေရေး၊ ငွေရေးကြေးရေးဆိုင်ရာ သောကဒုက္ခများကို အလျဉ်းသက်ခံလိုသူ

*၁ လယ်တီ ဖျတ္ထ ဝင်လျက်များ (စာမျက်နှာ–၃၅၆)၌ လယ်တီဦးဝဏ္ဏိတ၏မိခင်ကို ဒေါ်ဒေါ်မြဟု ပြထားသည်။ ဆရာ ဦးမောင်ကြီး၏မိခင်မှာ ဒေါ်ထပ်၊ လယ်တီဦးဝဏ္ဏိတ၏မိခင်မှာ ဒေါ်ရုပ်၊ ညီအစ်မအရင်းဖြစ်သည်။

မဟုတ်ပေ။ တိုက်တွင်ထိုင်ခိုင်း၍လည်းမရ။ သူ့ဘာသာသူ ၅၃–လမ်းနေအိမ်တွင် သင်းပြူးကိုခင်း အလျားကြီးမှောက်ကာ ဆောင်းပါးတွေ တစ်ပုဒ်ပြီးတစ်ပုဒ်၊ စာအုပ်တွေ တစ်အုပ်ပြီးတစ်အုပ် တရေးတည်းရေးနေချင်သူသာဖြစ်လေသည်။

ဆရာဦးမောင်ကြီးက အလုပ်လွှဲအပ်မှုကို လက်မခံစေကာမူ လယ်တီတရားသတင်းစာက ဆရာဦးမောင်ကြီးအား တစ်လလျှင် ဆောင်းပါးသုံးပုဒ်အတွက် ဉာဏ်ပူဇော်ခ ၇၅–ကျပ်မျှ မှန်မှန်ပေးခဲ့သည်။ 'လယ်တီတရားသတင်းစာကို ထုတ်ဝေရခြင်းအကြောင်း' အစရှိသော ခေါင်းကြီးပိုင်းကို ရေးပေးသည့်အတွက်က ၂၅–ကျပ်၊ တရားနှင့်သက်ဆိုင်သောသတိပေးဆောင်းပါးအတွက်က ၂၅–ကျပ်၊ အခြားဆီလျော်ရာ ဆောင်းပါးတစ်ခုအတွက်က ၂၅–ကျပ်။

ဤသို့စာပေဆိုင်ရာဉာဏ်ပူဇော်ခဖြင့်သာ တင်းတိမ်ကျေနပ်လျက် တရားသတင်းစာတစ်စောင်ရိုက်နှိပ်ရေး, ထုတ်ဝေရောင်းချရေးစသော လုပ်ငန်း၏အသေးစိပ်တာဝန်များကို ဆရာဦးမောင်ကြီးလက်မခံဘဲငြင်းပယ်ခဲ့ခြင်းကား စင်စစ် ပညာဆည်းပူးသူ စာဖတ်ပရိသတ်အတွက်အကျိုးများသည်ဟုဆိုရပေမည်။ အလုပ်အုပ်ချုပ်ရေးဘက်သို့သာ သူတကယ်အာရုံပြားသွားခဲ့ပါက 'မဟာဝိဇ္ဇာ' ဘွဲ့ထူးကိုဆွတ်ခူးမိသည်အထိ တန်ဖိုးရှိသည့်ထက်ရှိသောစာများကို သူယခုကဲ့သို့ အစဉ်တစိုက်ရေးသွားနိုင်ခဲ့မည်မဟုတ်ချေ။

စတင်ထုတ်ဝေနေပြီဖြစ်သော လယ်တီတရားသတင်းစာကို အုပ်ချုပ်လုပ်ကိုင်ရန် ဆရာဦးမောင်ကြီးအားလွှဲအပ်၍မရခဲ့စေကာမူ လယ်တီဦးဝဏ္ဏိတသည် ရုတ်တရက်လူမထွက်သေးဘဲ ရဟန်းဝတ်နှင့်ပင် ခြောက်လမျှ လယ်တီတရားသတင်းစာ၏ အခြေအနေကိုစောင့်ကြည့်ရင်း လယ်တီဆရာတော်၏ လွှဲအပ်ခဲ့ချက်အရ မီးရထားအခမဲ့စီးခွင့်ပတ်စ်လက်မှတ်နှင့် အနယ်နယ်သို့လှည့်လည်ကာ တရားဟောပြောသော လုပ်ငန်းကိုပင် ဆက်လက်ဆောင်ရွက်မြဲဆောင်ရွက်နေခဲ့လေသည်။ နယ်လှည့်တရားဟောရင်း လယ်တီတရားသတင်းစာကို လူအများဖတ်ချင်အောင် ဝါဒဖြန့်ရန်ကိုလည်း မမေ့ခဲ့ပေ။

လယ်တီတရားသတင်းစာ အမှတ်(၁)မှာ ထွက်ထွက်ချင်း ရိုက်သမျှစောင်ရေ ၂၀၀၀ ကုန်သွားသဖြင့် နောက်ထပ် ၂၀၀၀ နှစ်ကြိမ်ပြန်၍ရိုက်ရပြန်၏။ အမှတ်(၃)သို့ရောက်သောအခါ လယ်တီတရားသတင်းစာစောင်ရေမှာ တစ်သောင်းအထိ တစ်ဟုန်ချင်းထိုးတက်လာလေသည်။ စောင်ရေတိုးတက်လာသည်နှင့်အမျှ ငွေကြေးအရေးများမှာလည်းရှုပ်၍ရှုပ်၍လာ၏။ အမှတ်(၆)သို့ရောက်သည့်အခါတွင်ကား လယ်တီတရားသတင်းစာကို လက်အောက်ကိုယ်စားလှယ်များနှင့် လွှဲထား၍မရတော့ပေ။

'ဓမ္မဒေသနာတရားသတင်းစာ' ကိုထုတ်ခဲ့သော ဗုဒ္ဓသာသနသာသနာပြုအသင်းကြီးက ကိုယ်ပိုင်ပုံနှိပ်တိုက်ထူထောင်လိုက်သောအခါက လယ်တီဦးဝါယမအရှင်

သည် တရားလှည့်လည်ဟောကြားတော်မူနေရာမှလူထွက်ပြီး တရားသတင်းစာကို ဝင်ရောက်အုပ်ချုပ်ခဲ့ရသည့်နည်းတူပင် တရားဟောလှည့်လည်နေခဲ့သော လယ်တီဦးဝဏ္ဏိတသည်လည်း 'လယ်တီတရားသတင်းစာ' လုပ်ငန်းကြီးပွားကာ မနိုင်မနင်းဖြစ်လာလေသောကြောင့် လူထွက်ရချေတော့၏။*၁

## လယ်တီဦးလှတင်၏ သတင်းစာလာဘ်မြင်ပုံ

လယ်တီဦးဝဏ္ဏိတ လူထွက်လာပြီးနောက် လယ်တီတရားသတင်းစာ တိုးတက်ကြီးပွားရေးအတွက် ဆောင်ရွက်ပုံတို့ကို မောင်တင်မောင်၏ 'လူထုအလိုမလိုက်သော သတင်းစာများ' ဆောင်းပါးတွင် အောက်ပါအတိုင်း ဆက်လက်ရေးသားတင်ပြထားပြန်ပါသည်။

လယ်တီဦးဝဏ္ဏိတ၊ လူအမည် လယ်တီဦးလှတင်မှာ စာနယ်ဇင်းထုတ်ဝေရေးဘက်တွင် လာဘ်မြင်သောပုဂ္ဂိုလ်တစ်ဦးဖြစ်သည်။ ၁၂၈၅–ခုနှစ်၊ ပထမဝါဆိုလပြည့်နေ့ ၂–နာရီခွဲအချိန်တွင် ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး ပျဉ်းမနားမြို့၌ ပျံလွန်တော်မူခဲ့လေရာ ရဟန်းရှင်လူတို့မှာ နေမင်းကြီးတစ်ဆူ ကွယ်ပျောက်သွားသည့်အလား ယူကျုံးမရတသသ, လွမ်းဆွတ်ကြေကွဲလျက်ရှိခဲ့ကြ၏။ ထိုသို့လွမ်းဆွတ်မှုကိုအကြောင်းပြုလျက် လယ်တီဆရာတော်ဘုရားကြီး ပျံလွန်တော်မူခဲ့သော သုံးနှစ်မြောက်အထိမ်းအမှတ်အဖြစ် ၁၂၈၈–ခု၊ ဒုတိယဝါဆိုလပြည့်နေ့ (အေဒီ ၁၉၂၆–ခုနှစ်၊ ဇူလိုင်လ) တွင် လယ်တီတရားသတင်းစာကို စတင်ထုတ်ဝေလိုက်သောအခါ စာမျက်နှာပြည့်ရိုက်နှိပ်ထားသည့် လယ်တီသခင်ကျေးဇူးရှင်၏ပုံတော်ကြီးကို မဖူးမြင်စဖူး ဖူးမြင်ကြရသူ တပည့်ဒကာ,ဒကာမ,ရဟန်းရှင်လူအပေါင်းမှာ တစ်နည်းတစ်ဖုံအလွမ်းပြေကာ စိတ်သက်သာရာ ရရှိသွားကြသောကြောင့် လယ်တီတရားသတင်းစာကို သူ့ထက်ငါ မှာယူဖတ်ရှုကြလေတော့သည်။

ထိုခေတ်က တန်ခိုးသတ္တိနှင့်အပြည့်စုံဆုံး စာကလေးနှစ်လုံးရှိ၏။*၂ ထိုစာကလေးနှစ်လုံးကို လယ်တီတရားသတင်းစာ၏အမည်အဖြစ်ခံယူ အသုံးပြုမိလိုက်ခြင်းသည်ကား ထုတ်ဝေသူ လယ်တီဦးလှတင်၏ခေတ်သဘောကိုသိခြင်း ဉာဏ်သွားခြင်းပင်ဖြစ်သတည်း။

လယ်တီဦးလှတင်မှာ ကြော်ငြာတန်ဖိုးကို သိသူတစ်ယောက်လည်းဖြစ်၏။ သူ့ရိယသတင်းစာတွင် တစ်ကြိမ်လျှင် ၆၀–ကျပ်နှုန်းထားဖြင့် လယ်တီတရားသတင်းစာကြော်ငြာကိုထည့်၏။ 'နေမင်းကြီးတစ်ဆူ ဝင်တော်မူပြီဆိုသော်လည်း နေရောင်ခြည်

---

*၁ မောင်တင်မောင်၏ လူထုအလိုမလိုက်သော သတင်းစာများ၊ (ဆောင်းပါး)။ ဓာပေဗိမာန်စာစောင်။ အမှတ်–၂။ (စာမျက်နှာ–၆၃၊ ၆၄)။ လယ်တီဦးဝဏ္ဏိတသည် သက္ကရာဇ် ၁၂၈၈–ခုနှစ်၊ ပြာသိုလ (အေဒီ ၁၉၂၇–ခုနှစ်၊ ဇန်နဝါရီလ) တွင် လူဝတ်လဲပါသည်။

*၂ ထိုစာကလေးနှစ်လုံးမှာ 'လယ်တီ' ဟူ၍ဖြစ်သည်။

ကား မပျောက်နိုင်ခဲ့ချေ' ဟု ၁၂-လိုင်းခေါင်းစဉ်ကြီးတပ်လျက် လယ်တီဆရာတော်ဘုရားကြီးကိုယ်စား လယ်တီတရားသတင်းစာထုတ်ဝေတော့မည်ဖြစ်ကြောင်း ကြော်ငြာတစ်သောင်းလည်းရိုက်နှိပ်ဝေငှလေသည်။ တစ်လမှတစ်ကြိမ်ထုတ်ဝေသော စာစောင်တို့မည်သည် နေ့စဉ်သတင်းစာများတွင် မကြော်ငြာ၍မဖြစ်ပေ။

အဂ္ဂမဟာပဏ္ဍိတဆရာမြို့သည် သူ၏ဓမ္မဒေသနာတရားသတင်းစာတွင် လက်သည်းစောင်းထိုးဘလောက်များနှင့် ရုပ်စုံဖွင့်ခဲ့ဖူးသကဲ့သို့ပင် လယ်တီဦးလှတင်သည်လည်း သူ့နည်းနှင့်သူ 'လယ်တီတရားသတင်းစာ' တွင် ဆရာတော်ကြီးများ၏ ပုံတော်ကို ကြေးဘလောက်ကြီးများဖြင့် တရားဝါသနာကြီးလှသော ပရိသတ်အား နှစ်သိမ့်စေခဲ့၏။ ရှေးဦးစွာလယ်တီဆရာတော်၏ ပုံတော်ကြီးကိုဖော်ပြလိုက်ပြီးနောက် ဆက်ကာဆက်ကာ နောက်စာစောင်များတွင် မန်လည်ဆရာတော်၊ မဟာဝိသုဒ္ဓါရုံဆရာတော်၊ ကျိုက္ကစံဆရာတော်၊ မိုးညှင်းဆရာတော်၊ ကြောင်ပန်းဆရာတော် ဦးက္ကန္ဒက၊ ကျိုက်လတ်ပစ္ဆိမာရုံဆရာတော် စသောဆရာတော်ကြီးတို့၏ မျက်နှာပြည့်ပုံကြီးများကို တစ်ခုပြီးတစ်ခုဖော်ပြသွားပြီးလျှင် ထိုဆရာတော်ဘုရားကြီးများ၏ မိန့်ခွန်းတော်များကိုလည်း ထည့်သွင်းသွားလေသည်။

'အဲဒီဆရာတော်ကြီးများရဲ့ပုံတော်ကြီးတွေကို ကျွန်တော်က ကြေးဘလောက်ကြီးတွေလုပ်လုပ်ပြီးထည့်ပေးလိုက်တော့ စာဖတ်ပရိသတ်က ဆရာတော်ဘုရားကြီးများရဲ့ဓာတ်ပုံကြီးတစ်ပုံတစ်ပုံနဲ့ပဲ လယ်တီတရားသတင်းစာဟာ ငါးမူးတန်နေပြီလို့ယူဆကြတယ်။ အဲဒီအခါက သတင်းစာတွေမှာတောင် ကြေးဘလောက်ကြီးတွေ သိပ်မသုံးကြသေးဘူး။ အချို့ရယ်ရွှင်ပွယ်လိုကဏ္ဍများမှာသာ လက်ထိုးဘလောက်ကလေးဘာလေးသုံးကြသေးတာပဲ' ဟု သူ၏ရုပ်စုံဖွင့်ရကျိုးနပ်ပုံကို နှိုင်းယှဉ်ချက်များထုတ်လျက် လယ်တီဦးလှတင်က ပြောပြပေသည်။

လယ်တီသတင်းစာမှာ မြန်မာပြည်တွင်း၌သာမက ပြည်ပဖြစ်သော အိန္ဒိယ၊ သီဟိုဠ်၊ လန်ဒန် ဗုဒ္ဓဘာသာအသင်းများထိအောင်ပင် ပေါက်ရောက်ပျံ့နှံ့ခဲ့ပေ၏။ ဤသို့တစ်ဟုန်ထိုးစောင်ရေတိုးတက်လာသော လယ်တီတရားသတင်းစာ၏ အောင်မြင်မှုအရှိန်သည် တရားစာပေသမားတို့လောကဝယ် ဂယက်ရိုက်၍သွားလေရာ ဟိုမှသည်မှ တရားသတင်းစာထုတ်ဝေလိုသောပုဂ္ဂိုလ်များ ပေါ်ပေါက်လာကြလေသည်။ ရှေးဦးစွာ မန္တလေး ကျောက်သွေးတန်းမှ နဂါးနီဦးမောင်မောင် ဦးစီးသည့် သာသနာ့မဏ္ဍိုင်တရားသတင်းစာတစ်စောင်ပေါ်လာ၏။ ထို့နောက် ရန်ကုန်မှ ဝိသုဒ္ဓါရုံ ဦးပညိန္ဒဦးစီးသည့် ဓမ္မစကြာတရားသတင်းစာ ပေါ်လာပြန်၏-ဟူ၍ဖြစ်ပါသည်။ *၁

*၁ မောင်တင်မောင်၏ လူထုအလိုမလိုက်သော သတင်းစာများ၊ (ဆောင်းပါး)။ စာပေဗိမာန်စာစောင်။ အမှတ်-?။ (စာမျက်နှာ-၆၃၊ ၆၄)။

**လယ်တီတရားသတင်းစာ ရပ်တန့်သွားပုံ**

လယ်တီဟာရားသတင်းစာသည် လူသိများသော စာစောင်ဖြစ်လင့်ကစား ထုတ်ဝေပြီး (၂)နှစ်အရတွင် အခြားဘာသာရေးစာစောင်များ*[၁] ထွက်ပေါ်လာခြင်း၊ နိုင်ငံတွင်း၌ နိုင်ငံရေး စိတ်ဓာတ်နိုးကြားပြီး ကိုလိုနီအစိုးရအား တွန်းလှန်ကြသောအရေးကိစ္စများဖြစ်ပေါ်လာခြင်း၊ ကုလား–မြန်မာ ရိုက်ပွဲစသော လူမျိုးရေးအဓိကရုဏ်းစသည့်ကိစ္စများကြောင့် လယ်တီတရား သတင်းစာသည် ရပ်တန့်သွားခဲ့ရပုံတို့ကို မောင်တင်မောင်၏ လူထုအလိုမလိုက်သောသတင်းစာများ ဆောင်းပါး၌ ဤသို့ရေးသားဖော်ပြထားပါသည်။

ထုတ်ဝေစတွင် လယ်တီတရားသတင်းစာမှာ စာမျက်နှာ (၃၂)မျက်နှာခန့် ဖြင့်သာ ကိစ္စပြီးခဲ့သော်လည်း ပြိုင်ဘက်တရားသတင်းစာတွေ ပေါ်ပေါက်လာသည့် အခါ၌ကား ကြော်ငြာအလွတ် စာသားချည့် စာမျက်နှာ (၆၀)ကျော်အထိ တိုး၍ ထည့်သွင်းသွားရတော့၏။ ဘလောက်အသုံးဘက်တွင်လည်း မလျှော့ရပေ။ ကျော်စောသောဆရာတော်ကြီးတို့၏ မျက်နှာပြည့်ပုံကြီးများကို နှစ်ခြိုက်လောက် အောင် အလှည့်ကျထည့်သွင်းဖော်ပြသွားပြီးသည့်နောက် မန္တလေး မဟာမြတ်မုနိ ပုံတော်၊ အိမ်တော်ရာ၊ စကြာသီဟ၊ ကျောက်တော်ကြီး၊ ကုသိုလ်တော်၊ စန္ဒာမုနိ တို့၏ပုံတော်များနှင့်တကွ အခြားရာဇဝင်ထင်ရှားသော ပုဂံရွှေစည်းခုံစေတီ၊ အာနန္ဒာ၊ သဗ္ဗညု၊ အမရပူရပုထိုးတော်များသာမက ပဋ္ဌမသင်္ဂါယနာတင် မင်းတုန်းမင်းတရား ကြီးပုံနှင့် မန္တလေးနန်းတော်ကြီးပုံများကိုပါမကျန် စာရှုသူတို့ ကျေနပ်စေရန် တစ်ပတ် လျှင် တစ်မျိုးကျ အဆက်မပြတ် ထည့်သွင်းဖော်ပြသွားရ၏။

ထို့ကြောင့်လည်း ထုတ်ဝေစနှစ်တွင်သာ နောက်ထပ်ငွေမစိုက်ရဘဲ စရိတ် ကာမိခဲ့၏။ အပြိုင်လုပ်ရသော နောက်သုံးနှစ်တွင်ကား အရှုံးသာပေါ်လျက် နောက် ထပ်ငွေစိုက်ရသည်ချည်းသာဖြစ်သောကြောင့် အမှတ် (၄၅) သို့အရောက်တွင် ဆက်လက် ထုတ်ဝေရေးကို လက်လျှော့လိုက်ရလေတော့သည်–ဟူ၍ဖြစ်ပါသည်။*[၂]

---

*[၁] ဓမ္မစကြာသတင်းစာ (အေဒီ ၁၉၂၇)၊ ပိဋကတ်သုံးပုံသတင်းစာ (အေဒီ ၁၉၂၇၊ သထုံမြို့၊ ဗုဒ္ဓဘာသာတရားသတင်းစာ (အေဒီ ၁၉၃၂)၊ သာယာဝတီဦးဥေယျ၏ တရားသတင်းစာ (အေဒီ ၁၉၃၃)–စသည်တို့ကို ဆိုလိုသည်။

*[၂] မောင်တင်မောင်၏ လူထုအလိုမလိုက်သော သတင်းစာများ (ဆောင်းပါး)။ စာပေဗိမာန်စာစောင်။ အမှတ်–?။ (စာမျက်နှာ–၄၇၊ ၅၁)။

နောက်ဆက်တွဲ(၁)

## ထေရပ္ပတ္တိစာပေအကြောင်းသိကောင်းစရာအဖြာဖြာ

ထေရုပ္ပတ္တိစာပေအကြောင်းကိုမတင်ပြမီ ထေရုပ္ပတ္တိစာပေနယ်ပယ်ထက် ပိုမို၍ကျယ်ပြန့်သော အတ္ထုပ္ပတ္တိစာပေအကြောင်းကို ဦးစွာတင်ပြလိုပေသည်။

'အတ္ထုပ္ပတ္တိ' ဟူသောပါဠိဝေါဟာရသည် 'အတ္ထ' ဟူသော 'အကြောင်းဝတ္ထု' နှင့် 'ဥပ္ပတ္တိ' ဟူသော 'ဖြစ်ခြင်း' တို့ပေါင်းစပ်ရာမှ အတ္ထ + ဥပ္ပတ္တိ > အတ္ထုပ္ပတ္တိဝေါဟာရဖြစ်ပေါ်လာရပါသည်။*[၁]

မြတ်စွာဘုရားရှင်တို့မည်သည် တရားဟောကြားတော်မူခြင်းအလို့ငှာ ဟောကြားတော်မူရမည့်တရားအစဉ်ကိုသိပြီးဖြစ်ပါလျက် အကြောင်းဝတ္ထုတစ်ရပ်ရပ်ဖြစ်ပေါ်ရန်ကို ငံ့လင့်စောင့်ဆိုင်းနေတော်မူလေ့ရှိပြီးလျှင်၊ *[၂] ထိုအကြောင်းဝတ္ထုဖြစ်ပေါ်လာပြီဆိုကာမှ တရားတော်ကိုစတင်ကာဟောကြားတော်မူပါသည်။*[၃] ဤသို့မြတ်စွာဘုရားရှင်၏တရားတော်ဟောကြားမှုရန်ဖြစ်ပေါ်လာရသောအကြောင်း ဝတ္ထုစသည်ကို အဋ္ဌကထာကျမ်းများ၌*[၄] 'အဋ္ဌုပ္ပတ္တိ' ဟူသောဝေါဟာရဖြင့်မှတ်တမ်းတင်ရေးသားခဲ့ကြပါသည်။ စင်စစ် ထိုအဋ္ဌကထာကျမ်းများလာ 'အဋ္ဌုပ္ပတ္တိ' ဝေါဟာရသည် ယခုအခါ အသုံးတွင်လျက်ရှိသော 'အတ္ထုပ္ပတ္တိ' ဝေါဟာရနှင့် အနက်တူစကားလုံးပင်ဖြစ်သည်။*[၅]

'အဋ္ဌုပ္ပတ္တိ' ဟူသောဝေါဟာရကို အဋ္ဌကထာကျမ်းများတွင် များစွာတွေ့ရှိရသဖြင့် ထိုဝေါဟာရကို သီရိလင်္ကာ၌ အဋ္ဌကထာစာပေပေါ်ထွန်းသောခေတ်*[၆] တစ်နည်း သာသနာနှစ် ၉၀၁–

---

*၁ သုတ္တံဒေသနာယ ဝတ္ထုဘူတဿ အတ္ထဿ ဥပ္ပတ္တိ အတ္ထုပ္ပတ္တိ– ဣတိဝုတ်၊ဋ္ဌ။၃၂။ အတ္ထဿ ဥပ္ပတ္တိအတ္ထုပ္ပတ္တိ–ဒီ၊ဋီ၊ ၁။၅၇။

*၂ အဋ္ဌုပ္ပတ္တိကာလာဘိကင်္ခနတ္ထာယ–ဒီ၊ဋ္ဌ၊၁။၂၁၆။ ဒီ၊ဋီ၊၂။၂၀၆။

*၃ 'အယံ ဒေသနာ...ကတမာယ အဋ္ဌုပ္ပတ္တိယာ ဒေသိတာတိ–ဒီ၊ဋ္ဌ၊၃။၁၀၁။ မ၊ဋ္ဌ၊၁။၁၅။ အံ၊ဋ္ဌ၊၁။၉၇။ ခုဒ္ဒကာ၊ဋ္ဌ။ ၆၂, ၁၈၃–စသည်။ ဝိနည်းပါဠိတော်၌ ဒွိဟိ အာကာရေဟိ ဗုဒ္ဓါ ဘဂဝန္တော ဘိက္ခူ ပဋိပုစ္ဆန္တိ– ဓမ္မံ ဝါ ဒေသေဿာမ, သဝကာနံ ဝါ သိက္ခာပဒံ ပညပေဿာမာတိ–ဝိ၊ ၁။ ၇–ဟု ပြဆိုထား၏။ ဤအချက်ကိုရည်၍ မန်လည်ဆရာတော်ကြီးက မဃဒေဝလင်္ကာသစ် (အပိုဒ်–၁၉)၌ 'အိန့်အိန့်ဖြည်းညှင်း၊ သုံးလူ့မင်းတို့၊ ထိုးထွင်းမသိ၊ စိုးတစ်မျှ၊ မယှိပြားလည်း၊ တရားသောဂ္ဂါ၊ သိက္ခာပညတ်၊ ဋ္ဌပ္ပတ်ရေးမြော်၊ ကြောင်းနှစ်ဘော်ဖြင့်၊ နှုတ်တော်စိစစ်၊ မေးမြဲဖြစ်၏'–ဟု ဖွဲ့ဆိုထားပါသည်။

*၄ ဒီ၊ဋ္ဌ၊၁။၅၁၊၂၁၆။ ဒီ၊ဋ္ဌ၊၃။၁၀၁။ မ၊ဋ္ဌ၊၁။၁၇။ သံ၊ဋ္ဌ၊၂။၃။ အံ၊ဋ္ဌ၊၁။၉၇။ ခုဒ္ဒကာ၊ဋ္ဌ။၆၂။ ဥဒါန၊ဋ္ဌ။၂၇။ ဣတိဝုတ်၊ဋ္ဌ။၃၂။

*၅ အတ္ထုပ္ပတ္တိ ဧဝ အဋ္ဌုပ္ပတ္တိ ထ္ထ–ကာရဿ ဋ္ဌ–ကာရံ ကတွာ၊ သာ ဧတဿ အတ္ထီတိ အဋ္ဌုပ္ပတ္တိကော–ဣတိဝုတ်၊ဋ္ဌ။၃၂၃။ ဥဒါန၊ဋ္ဌ။၂၈။ ဒီ၊ဋီ။၁။၅၇။ မ၊ဋီ၊၁။၅၅။ သံ၊ဋီ။၁။၁၇၆။ သံ၊ဋီ။၂။၂၇။ အံ၊ဋီ။၁။၄၈။

*၆ အရှင်မဟာဗုဒ္ဓဃောသ အဋ္ဌကထာကျမ်းများပြုစုသောခေတ်ကို အနောက်တိုင်းပါဠိစာပေပညာရှင်တို့က အေဒီ ၃၇၀ မှ ၄၅၀ အတွင်းဟုပြသည်။ Hinuiber'A Handbook of Pāli Literature. 1997. (Page-103). မဟာစည်ဆရာတော်ဘုရားကြီးကမူ သာသနာနှစ် ၉၀၁–၁၀၀၀ (အေဒီ ၃၅၈–၄၅၇)အတွင်းဟု ပြတော်မူသည်။ မဟာစည်ဆရာတော်ကြီး၏ ဝိသုဒ္ဓိမဂ် မြန်မာပြန်၊ ပထမတွဲ။ (စာ–ဆဲ)။ အရှင်ဓမ္မပါလမထေရ်ပေါ်ထွန်းသောခေတ်ကာလကို သီရိလင်္ကာ ပါဠိစာပေပညာရှင် Dr. Malalasekera က အေဒီ ၇–ရာစုမတိုင်မီဟုခန့်မှန်းပြီး၊ အရှင်သီလာနန္ဒာဘိဝံသက အေဒီ ၁၀–ရာစုအတွင်းဟု ဆုံးဖြတ်တော်မူခဲ့သည်။ DPPN, Vol. I 1960. (Page-1146). တိပိဋကပါဠိ မြန်မာအဘိဓာန်၊ အပိုင်း–၁။ ၁၉၆၄–ခုနှစ်။ (စာမျက်နှာ–၃၃)။

၁၀၀၁ အကြား (အေဒီ ၃၅၈–၄၅၇) ၌ တွင်တွင်ကျယ်ကျယ် သုံးစွဲခဲ့ကြောင်း မှတ်ယူနိုင်ပါသည်။

**အဋ္ဌုပ္ပတ္တိနှင့်အတ္ထုပ္ပတ္တိ**

အဋ္ဌုပ္ပတ္တိ–ဟူသောဝေါဟာရကို 'အတ္ထုပ္ပတ္တိ'ဟုရေးနိုင်ကြောင်း ဋီကာဆရာတို့က ညွှန်ပြထားသော်လည်း အချို့သောကျမ်းပြုဆရာတော်တို့ကမူ အဋ္ဌကထာနည်းကိုလိုက်ပြီး အဋ္ဌုပ္ပတ္တိ*၁ ဟူ၍သာသုံးစွဲကြသည်။ သို့ပါသော် ယခုအခါ 'အဋ္ဌုပ္ပတ္တိ'ဟူသောအသုံးမှာနည်းပါးခဲ့ပြီး 'အတ္ထုပ္ပတ္တိ' သာ အသုံးတွင်ကျယ်နေခဲ့ပြီဖြစ်သည်။ ပါဠိသက်မြန်မာဝေါဟာရအနေဖြင့် 'အဋ္ဌုပ္ပတ်'၊ 'အတ္ထုပ္ပတ်' တို့ကို အနက်တူဝေါဟာရအဖြစ်ဖြင့် ရေးသားသုံးစွဲခဲ့ကြသည်။*၂

'အတ္ထုပ္ပတ္တိ'ဟူသောဝေါဟာရကို အဋ္ဌကထာဆရာတို့က 'မြတ်စွာဘုရားရှင်၏ တရားဟောကြားတော်မူရန် ဖြစ်ပေါ်လာသောအကြောင်းဝတ္ထု'*၃ ဟူသောအနက်ဓိပ္ပာယ်ဖြင့်သုံးစွဲခဲ့ကြပြီး၊ နောင်ခေတ်ကာလကြာမြင့်လာသော် ထိုဝေါဟာရကို 'တစ်စုံတစ်ခု၏အဖြစ်အပျက်*၄ အကျိုးအကြောင်း၏ဖြစ်ပေါ်ခြင်း*၅ အကြောင်းအရာဖြစ်စဉ်*၆၊ ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်၏ဘဝဖြစ်စဉ်*၇ a statement of facts, narration of events, biography;*၈' စသည့်အနက်တို့ဖြင့်သုံးစွဲနိုင်ကြောင်း အဘိဓာန်ကျမ်းများ၌ အနက်ဖွင့်ဆိုပြထားလေသည်။

အေဒီ ၁၂–၁၃ ရာစု ပုဂံခေတ်ထိုးကျောက်စာများတွင် ပါဠိနှင့်ပါဠိသက် မြန်မာဝေါဟာရတို့ကို အများအပြားတွေ့ရသည့်အတွက် အေဒီ ၁၂–ရာစုနှစ်ဦးကပင် 'အဋ္ဌုပ္ပတ္တိ'ဟူသော ပါဠိဝေါဟာရ၊ သို့မဟုတ် 'အတ္ထုပ္ပတ်'ဟူသော ပါဠိသက်ဝေါဟာရကို မြန်မာစာပေလောက၌ သုံးစွဲနေခဲ့ပြီဟု ယူဆဖွယ်ရှိလေသည်။*၉ သို့သော် အေဒီ ၆၃၈–ခုနှစ်မတိုင်မီက မြန်မာနိုင်ငံ အလယ်ပိုင်း ပြည်မြို့နယ်အတွင်းရှိ သရေခေတ္တရာမြို့ဟောင်း၌ ပျူလူမျိုးတို့ ပါဠိဝေါဟာရတို့ကို

---

*၁ မင်းကွန်းတိပိဋကဓရဆရာတော်ကြီးကမူ 'သီလက္ခန်ဋီကာ၌ အတ္ထုပ္ပတ္တိ–ဟု ရေးခွင့်ရှိကြောင်းပြထားစေကာမူ မူလအရိုးကျ အဋ္ဌုပ္ပတ္တိကိုသာသုံးစွဲပါ' ဟုမိန့်ကြားပြီး မင်းကွန်းဂူကလေးချောင်ဆရာကြီးဒေါ်ခမ္မစာရီ၏ဘဝဖြစ်စဉ် စာအုပ်ရိုက်နှိပ်စဉ် အခါက ထိုစာအုပ်တွင် 'အဋ္ဌုပ္ပတ္တိ'ဟူသောဝေါဟာရဖြင့်သာ စာရေးသူအား ပုံနှိပ်စေခဲ့ပါသည်။

*၂ ဒဂုန်ဦးထွန်းမြင့်၏ ပါဠိသက်ဝေါဟာရအဘိဓာန်။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၄၆၃)။ Dr. Hla Pe' 'Some Adapted Pāli Loan-Words in Burmese. BRSFAP, I. Jan., 1960. (Page-76).

*၃ တိပိဋကပါဠိမြန်မာအဘိဓာန်၊ အပိုင်း–၁။ (စာမျက်နှာ–၃၄၄)။

*၄ လယ်တီပဏ္ဍိတဦးမောင်ကြီး၏ ပါဠိအဘိဓာန်ချုပ်။ ၁၉၆၅–ခုနှစ်။ (စာမျက်နှာ–၃၁)။

*၅ ဦးဟုတ်စိန်၏ ပါဠိမြန်မာအဘိဓာန်၊ အပိုင်း–၁။ ၁၉၅၄–ခုနှစ်။ (စာမျက်နှာ–၄၀)။

*၆ ဒဂုန်ဦးထွန်းမြင့်၏ ပါဠိသက်ဝေါဟာရအဘိဓာန်။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၄၆၀)။

*၇ မြန်မာစာအဖွဲ့၏ မြန်မာအဘိဓာန်။ ၁၉၉၁–ခုနှစ်။ (စာမျက်နှာ–၄၄၂)။

*၈ J.A. Stewart' A Burmese-English Dictionary, Part III. 1955. (Page-122).

*၉ ဤအချက်နှင့်စပ်၍ ဆရာကြီးဒေါက်တာလှပေနှင့် ဒဂုန်ဦးထွန်းမြင့်တို့၏ အယူအဆကိုနည်းမှီ၍ တင်ပြခြင်းဖြစ်ပါသည်။ Dr. Hla Pe' Some Adapted Pāli Loan-Words in Burmese. (Page-71). ဒဂုန် ဦးထွန်းမြင့်၏ ပါဠိသက်ဝေါဟာရအဘိဓာန်။ (စာ–က)။

သုံးစွဲနေကြကြောင်း အထောက်အထားများကိုတွေ့ရပြန်သောကြောင့်[*၁] ပုဂံခေတ်ထက်စော၍ပင် ပါဠိနှင့်ပါဠိသက်(ပျူ)ဝေါဟာရများအဖြစ် သုံးနှုန်းနေပြီဟုလည်း ယူဆနိုင်ပြန်ပါသည်။ သို့ပါ၍ အတ္တုပ္ပတ္တိ–ဟူသောဝေါဟာရကို မြန်မာနိုင်ငံ၌အစောဆုံးအားဖြင့် ပျူခေတ်၊ သို့မဟုတ် နောက်အကျဆုံး ပုဂံခေတ်အခါကပင် သုံးစွဲခဲ့ကြမည်မှာ ယုံမှားဖွယ်မရှိချေ။[*၂]

အင်းဝခေတ်၌ မြန်မာစာလုံးပေါင်းကို စံကိုက်ဖြစ်အောင် ရှေးဦးမဆွကြံဆောင်ခဲ့သူ ရှင်မဟာရဋ္ဌသာရ[*၃] သည် မြန်မာသက္ကရာဇ် ၈၅၆–ခုနှစ်တွင်ဖွဲ့သော ဘူရိဒတ်ဇာတ်ပေါင်းပျို့တွင် 'မျိုးသကျ၌၊ ပေါက္ခရဝသ်၊ အထုပ္ပတ်(အဋ္ဌုပ္ပတ်)ကြောင့်၊ ဆခတ္တိယာ[*၄]' ဟူ၍ အတ္တုပ္ပတ္တိ ဝေါဟာရကို သုံးစွဲထားကြောင်းတွေ့ရသည်။[*၅] ဤဘူရိဒတ်ဇာတ်ပေါင်းပျို့သည် မြန်မာပျို့ခရီးစဉ်၌ ရှေးအကျဆုံးပေါ်ထွက်ခဲ့သောပျို့ဖြစ်ကြောင်းကို ပညာရှင်တို့ယူဆကြပြီးဖြစ်လေသည်။[*6]

**အတ္တုပ္ပတ္တိအမျိုးမျိုး**

အတ္တုပ္ပတ္တိ–သည် 'မည်သည့်ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်ကိုမဆို မွေးဖွားသည်မှ ကွယ်လွန်သည်တိုင်အောင်ကာလအတွင်း ဘဝဖြစ်စဉ်အကြောင်းခြင်းရာများကိုပြဆိုခြင်း'ဟူသော အနက်အဓိပ္ပာယ်ရှိသော်လည်း ဝေါဟာရပရိယာယ်ခေါ်တွင်သုံးစွဲပုံမှာကား နေရာဌာနအလိုက် ကွဲပြားမှုရှိကြောင်းတွေ့ရသည်။ ပမာအားဖြင့် မြတ်စွာဘုရားရှင်၏ဖြစ်တော်စဉ်တို့ကို 'ဗုဒ္ဓဝံသ၊ ဗုဒ္ဓုပ္ပတ္တိ၊ ဗုဒ္ဓစရိတ၊ ဇိနစရိတ၊ ဇိနာလင်္ကာရ၊ ဇိနတ္ထပကာသနီ၊ တထာဂတဥဒါနဒီပနီ' စသည်ဖြင့်လည်းကောင်း၊ ဘုရင်မင်းတို့၏ဖြစ်စဉ်ကိုပြဆိုရာတွင် 'ရာဇဝံသ(ရာဇဝင်)၊ မဟာဝံသ(မဟာဝင်)၊ ရာဇဝံသဇာလိနီ' –စသည်ဖြင့်လည်းကောင်း၊ စေတီပုထိုးတို့၏ဖြစ်ပေါ်မှုသမိုင်းစဉ်ကိုပြရာ၌ 'စေတိယဝံသ၊ ထူပဝံသ' စသည်ဖြင့်လည်းကောင်း၊ ထေရ်ရှင်ရဟန်းတော်တို့၏ဖြစ်တော်စဉ်တို့ကိုပြဆိုရာ၌ 'ထေရုပ္ပတ္တိ၊ မဟာထေရုပ္ပတ္တိ၊ ထေရုပ္ပတ္တိဒီပနီ၊ သမဏုပ္ပတ္တိ၊ သံဃုပ္ပတ္တိ၊

---

*၁ Dr. G.H. Luce' Phases of Pre-Pagan Burma. Vol.I. 1985. (Page-47); The Advent of Buddhism to Burma. 1974. (Page-127). J. Stargardt' The Oldest Known Pāli Texts…from Śrt. Ksetra. JPTS, Vol XXXI. 1995. (Page-203).

*၂ 'ထေရုပ္ပတ္တိ'ဟူသောဝေါဟာရကို ကျောက်စာ စသည်၌သုံးစွဲထားကြောင်း အထောက်အထားကိုကား ယနေ့တိုင်မတွေ့ရသေးပေ။

*၃ မင်းသုဝဏ်၏ မြန်မာစာလုံးပေါင်းဖြစ်စဉ် (ဆောင်းပါး)။ မြန်မာစာမြန်မာမှု။ ၁၉၆၅–ခုနှစ်။ (စာမျက်နှာ–၁၃၉)။

*၄ အရှင်မဟာရဋ္ဌသာရ၏ ဘူရိဒတ်ဇာတ်ပေါင်းပျို့။ ၁၉၅၁–ခုနှစ်။ (စာမျက်နှာ–၅၃)။ ထိုအပိုဒ်ပါ ပျို့စာသား၏ အဓိပ္ပာယ်ဆိုလိုရင်းမှာ 'သာကီဝင်မင်းအပေါင်း၌ ပေါက္ခရမိုးယိုး၏ ရွာခြင်းတည်းဟူသောအဋ္ဌုပ္ပတ္တိကြောင့် ဆွေတော်မျိုးတော်ဖြစ်သော မင်းခြောက်ပါးတို့သည်'ဟူ၍ဖြစ်သည်။ ရွှေဥမင်ဆရာတော်၏ ဘူရိဒတ်ပေါင်းပျို့အဖြေ။ ၁၈၉၈–ခုနှစ်။ (စာမျက်နှာ–၂၅၉)။

*၅ အရှင်မဟာရဋ္ဌသာရသည် 'အတ္တုပ္ပတ္တိ'ဟူသောဝေါဟာရကို သက္ကရာဇ် ၈၅၈–ခုနှစ် တံတားဦးတည်မော်ကွန်းတွင် 'ဘုရားတို့ဇာတ်၊ အဋ္ဌုပ္ပတ်မှု'ဟူ၍လည်းကောင်း၊ သက္ကရာဇ် ၈၈၅–ခုနှစ် စတုဓမ္မသာရကိုးခန်းပျို့တွင် 'ဉာဏချွန်းအုပ်၊ ယဉ်အောင်ချုပ်မှ၊ အဋ္ဌုပ္ပတ္တိ၊ ဆိုဘွယ်ရှိသား'ဟူ၍လည်းကောင်း ထည့်သွင်းရေးဖွဲ့ထားခဲ့ပြီးဖြစ်ပါသည်။

*6 ဦးသန်း၏ မြန်မာပျို့များခရီးစဉ်(စာတန်း)။ တက္ကသိုလ်ပညာပဒေသာစာစောင်၊ ၁၉၇၄–ခုနှစ်။ (စာမျက်နှာ–၈၁)။

ထေရဝံသာစာရက္ကမပဒီပိကာ[*၁]၊ ထေရာပါဒါန်[*၂]၊ မဟာထေရစရိတံ[*၃]၊ ထေရဝတ္ထုသန္ဒိပနီ၊[*၄] မဟာထေရုပ္ပတ္တိက္ကမသင်္ခေပ[*၅]၊ ထေရုပ္ပတ္တိက္ကမစာတမ်း[*၆]၊ မဟာထေရာ(စိဏ္ဏ)ဇာတ်တော်[*၇]၊ ထေရဝတ္ထု ဝိကာသိနီ[*၈]၊ ထေရဝတ္ထု ဝိလာသိနီ[*၉]၊ မဟာထေရလလိတ[*၁၀]၊ ထေရဝတ္ထုဒီပိကာ[*၁၁]၊ အစ္ဆရိယာပဒါန်[*၁၂]၊ ထေရဂုဏ်ရည်[*၁၃]၊ ထေရဝိက္ကီဠိတ[*၁၄]၊ ဝိဘာဝိနီ[*၁၅]၊ ထေရုပ္ပတ္တိဝိဘာဝိနီ[*၁၆]၊ ထေရုပ္ပတ္တိဒီပက[*၁၇] စသည်ဖြင့်လည်းကောင်း အမျိုးမျိုးအလှယ်လှယ် သုံးစွဲနိုင်ကြောင်း တွေ့ရသည်။

ဤသို့လျှင် ထေရုပ္ပတ္တိ၊ သံယုပ္ပတ္တိစသည်အမည်အမျိုးမျိုးဖြင့်ခေါ်ဝေါ်နိုင်သော မထေရ်မြတ်တို့၏ဖြစ်တော်စဉ်ကို ပြရာပြကြောင်းဖြစ်သည့် ထေရုပ္ပတ္တိစာပေအကြောင်းကို ရှင်းလင်းတင်ပြလိုပေသည်။

## ထေရုပ္ပတ္တိ–ဟူသည်

ကမ္ဘာ့အတ္ထုပ္ပတ္တိစာပေလောက၌ ရှေးဦးဆုံးဖူးပွင့်လာသောအတ္ထုပ္ပတ္တိစာပေများသည် စိန့်[*၁၈] ခေါ်သူတော်စင်များ၊ ဘာသာရေးဆိုင်ရာပုဂ္ဂိုလ်ကျော်များနှင့်သက်ဆိုင်သော အတ္ထုပ္ပတ္တိ[*၁၉] တို့သာဖြစ်ဘိသို့ မြန်မာအတ္ထုပ္ပတ္တိစာပေ၌လည်း ယေဘုယျအားဖြင့် ဆရာတော်သံဃာတော်အရှင်

---

*၁ ဝတ်ချက်လေ့သင်းမင်းကျောင်းဆရာတော်၏ ထေရဝံသာစာရက္ကမပဒီပိကာ။ ၁၂၈၈–ခုနှစ်။

*၂ အရှင်အာစိဏ္ဏ၏ ကောဏ္ဍညထေရာပဒါန်။ ၁၃၁၉–ခုနှစ်။ အရှင်သုဝဏ္ဏဇောတိ၏ သဒ္ဓမ္မောဒယထေရာပါဒါန်။ ၁၃၂၃–ခုနှစ်နှင့် နေရင်းဦးကောဝိဒ၏ မိုးညှင်းမဟာထေရာပဒါန်။ ၁၃၃၃–ခုနှစ်။

*၃ ဝဇိရာရာမထေရစရိတ။ ၁၂၇၂–ခုနှစ်နှင့် အရှင်ကေလာသ၏ အရှင်သုန္ဒရမဟာထေရစရိတ။ ၁၉၇၂–ခုနှစ်။

*၄ အရှင်ကေလာသ၏ တိပိဋကရေဝတ္ထုသန္ဒိပနီ။ ၁၃၄၀–ပြည့်နှစ်။

*၅ ဓနုဖြူမြို့၊ သဒ္ဓမ္မဇောတိကာရာမိကမဟာထေရုပ္ပတ္တိက္ကမသင်္ခေပ။ ၁၂၉၇–ခုနှစ်။

*၆ ပဲခူးမြို့၊ ကမ္ဘဋ္ဌာန်းကျောင်းဆရာတော်ကြီး၏ထေရုပ္ပတ္တိက္ကမစာတမ်း။ ၁၂၉၁–ခုနှစ်။

*၇ မဟာထေရာစိဏ္ဏဇာတ်တော်။

*၈ အရှင်ကေလာသ၏ အရှင်ဝိစိတ္တသာရာဘိဝံသအတ္ထုပ္ပတ္တိခေါ် တိပိဋကရေဝတ္ထု ဝိကာသိနီ။ ၁၃၄၂–ခုနှစ်။

*၉ အရှင်ကေလာသ၏ အရှင်ဝဏ္ဏာစာရ၏ ထေရဝတ္ထု ဝိလာသိနီ။ ၁၃၄၀–ပြည့်နှစ်။

*၁၀ အရှင်ကေလာသ၏ အရှင်ပညာ၏မဟာထေရလလိတ။ ၁၃၃၈–ခုနှစ်။

*၁၁ အရှင်ကေလာသ၏ အရှင်ဂန္ဓသာရ၏မဟာထေရဝတ္ထုပ္ပဒီပိကာ။ ၁၃၃၇–ခုနှစ်။

*၁၂ အရှင်ကေလာသ၏ ဦးနာယက အစ္ဆရိယာပဒါန်။ ၁၃၄၀–ပြည့်နှစ်။

*၁၃ အရှင်ကေလာသ၏ ကလျာဏထေရဂုဏ်ရည်။ ၁၃၃၀–ပြည့်နှစ်။

*၁၄ အရှင်ကေလာသ၏ အရှင်ဂန္ဓမာ၏ထေရဝိက္ကီဠိတ။ ၁၃၄၂–ခုနှစ်။

*၁၅ ရှင်လက္ခဏ၏ ညောင်ရမ်းဝိဘာဝနီကျမ်း။ ၁၃၁၈–ခုနှစ်။

*၁၆ ရှင်သူရိယာဘိဝံသ၏ ငွေတောင်မဟာထေရုပ္ပတ္တိဝိဘာဝနီ။ ၁၂၉၃–ခုနှစ်။

*၁၇ ရှင်မင်္ဂလ၏ ရွှေလှံမဟာထေရုပ္ပတ္တိဒီပက။ ၁၂၉၀–ပြည့်နှစ်။

*၁၈ Saint.

*၁၉ Hagiography. (Gk, Hagios=holy+graphy=Scripture)။ အေဒီ ၁၅၆၃–ခုနှစ်တွင် လက်တင်ဘာသာဖြင့် ရေးသားပုံနှိပ်သော The Book of Martyrs နှင့် အေဒီ ၁၆၈၃–ခုနှစ်တွင်ပုံနှိပ်သော Lives of the Noble Grecians and Romanes သည် ဥရောပတိုက်၏ ပထမဦးဆုံးအတ္ထုပ္ပတ္တိစာအုပ်များပင်ဖြစ်သည်။ An English Library. 1964. (Page-43).

သူမြတ်တို့၏ထေရပ္ပတ္တိတို့သာလျှင် အတ္တုပ္ပတ္တိစာပေလောက၌ ရှေးဦးစွာပွင့်ထွန်းပေါ်ပေါက်လာခဲ့ကြရပါသည်။[*၁]

ဤနေရာ၌ ထေရုပ္ပတ္တိ–[*၂] ဟူသောဝေါဟာရကို တိုတိုကျဉ်းကျဉ်းလိုရင်းအနက်အားဖြင့် 'ထေရ်ရဟန်း၏အဖြစ်သနစ်'ဟုအနက်ဖွင့်နိုင်ပြီး၊ ကျယ်ကျယ်ဝင့်ဝင့်ဆိုပါမူ 'ဇာတိဒေသနှင့် စုတေဌာန နှစ်ကာလအကြားဝယ် ထင်ရှားပေါ်လွင်သော ဖြစ်တော်မူပုံအစဉ်စကားနှင့် မှတ်သားဖွယ်မူ အတုနည်းယူစရာ ဟောပြောဆုံးမပုံအခန်း, ကျင့်လမ်းအစဉ်မှစ၍ သာသနာပြုနည်း အသီးသီးသောအကြောင်းအရာတို့ကို ကောင်းစွာပြဆိုရာ(ကျမ်း)'–ဟူ၍ဖြစ်ပါသည်။[*၃]

ထေရုပ္ပတ္တိစာပေသည် မြန်မာနိုင်ငံ၌ မည်သည့်အချိန်ကစတင်ထွန်းကားခဲ့ကြောင်းကို အတိအကျဖော်ပြရန် မစွမ်းသာသော်လည်း အင်းဝခေတ်၌ထွန်းကားခဲ့သော ပျို့ကဗျာတို့၏နိဂုံးစသည်တွင်တွေ့ရသော စာဆိုရှင်တို့၏အကြောင်းအရာများသည် အတ္တုပ္ပတ္တိစာပေပေါ်ထွန်းရာအစမျိုးစေ့သန္ဓေဖြစ်နိုင်သည်။[*၄] အင်းဝခေတ်ပေါ် ပျို့ကဗျာလင်္ကာတို့၏နိဂုံးတွင် စာဆိုရှင်သည် မိမိ၏နေရပ်ဒေသ၊ မွေးသက္ကရာဇ်နှင့်တကွ မိဘတို့၏ဘွဲ့မည်ရင်းမှအစ ပညာသင်ယူပုံ၊ ကြီးပွားခဲ့ပုံတို့ကိုသာမက မိမိ၏စိတ်ထားခံယူချက်၊ မိမိ၏ဘဝဖြစ်စဉ်နှင့်ဆက်စပ်နီးနွယ်နေသော ခေတ်သမိုင်းကြေးမုံ ကားချပ်တို့ကိုပါဖော်ပြထားသည့်အတွက် အပြည့်အစုံမဟုတ်စေကာမူ အသင့်အတော်ကိုယ်ရေးအတ္တုပ္ပတ္တိစာပေများဟု ဆိုသင့်လေသည်။[*၅] ဤသို့ပျို့ကဗျာနိဂုံးများ၌ စာဆိုရှင်က မိမိ၏ဘဝတစ်စိတ်တစ်ဒေသကို အသင့်အတော် ထုတ်ဖော်ရေးသားခဲ့သည့်နည်းတူ၊ ထိုခေတ်၌ ပေါ်ပေါက်ခဲ့သော ကျမ်းပြုပုဂ္ဂိုလ်တို့ကလည်း မိမိတို့ပြုစုသောကျမ်းနိဂုံးတို့၌ မိမိတို့၏ဘဝတစ်စိတ်တစ်ဒေသကို ပါဠိဂါထာတို့ဖြင့်ဖြစ်စေ၊ စုဏ္ဏိယ စကားပြေဖြင့်ဖြစ်စေ ဖော်ပြသောအလေ့ရှိခဲ့ပါသည်။[*၆]

---

*၁ ပါရဂူ၏မြန်မာအတ္တုပ္ပတ္တိသမိုင်း(စာတမ်း)။ အတ္တုပ္ပတ္တိစာပေ။ ၁၉၇၁–ခုနှစ်။ (စာမျက်နှာ–၄)။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ(၁၅)။ ၁၉၇၆–ခုနှစ်။ (စာမျက်နှာ–၃၅၃)။

*၂ ထေရုပ္ပတ္တိ = ထေရ + ဉပ္ပတ္တိ။ ထေရ = မထေရ်၊ ရဟန်း + ဉပ္ပတ္တိ = အဖြစ်သနစ်။ ဒဂုန်ဦးထွန်းမြင့်၏ ပါဠိသက်မြန်မာဝေါဟာရအဘိဓာန်။ ၁၉၆၈–ခုနှစ်။ (စာမျက်နှာ–၉၇)။

*၃ အရှင်ပုညာနန္ဒ၏ သဒ္ဓမ္မဇောတိကာရာမိကဆရာတော်ကြီး၏မဟာထေရုပ္ပတ္တိက္ကမသင်္ခေပစာတမ်း။ ၁၂၉၇–ခုနှစ်။ (စာမျက်နှာ–က)။

*၄ ပါရဂူ၏ မြန်မာအတ္တုပ္ပတ္တိသမိုင်း။ (စာမျက်နှာ–၁၉)။ ပုဂံခေတ်၌ ပေါ်ထွက်ခဲ့သော သဒ္ဒနီတိကျမ်း၊ မဟာဗောဓိဝင်ဋီကာ–စသောကျမ်းများ၏နိဂုံးတွင်လည်း ကျမ်းပြုဆရာတော်တို့က မိမိတို့၏အကြောင်းတစ်စိတ်တစ်ဒေသကို အကျဉ်းမျှဖော်ပြထားခဲ့ဖူးပါသည်။

*၅ လက်ဝဲနော်ရထာ၏ ပျို့နိဂုံးအဖြေကျမ်း။ ၁၉၉၅–ခုနှစ်။ (စာမျက်နှာ–၅)။ ရှင်မဟာရဋ္ဌသာရစပ်ဆိုခဲ့သော ကိုးခန်းပျို့၊ ဘူရိဒတ်ဇာတ်ပေါင်းပျို့၊ ဘူရိဒတ်လင်္ကာကြီး၊ ပုံတောင်နိုင်မော်ကွန်း–စသည်တို့မှစာကိုယ်များကို ကိုးကားပြီး စာဆိုအရှင်မဟာရဋ္ဌသာရ၏ စိတ်နေစိတ်ထားနှင့် ခံယူချက်တို့ကိုဖော်ပြထားသည်။ ဦးဆန်းထွန်း၏ ရှင်မဟာရဋ္ဌသာရစိတ်နေစိတ်ထား(စာတမ်း)။ ရှင်မဟာရဋ္ဌသာရ နှစ် ၅၀၀–ပြည့်စာတမ်းများ။ ၁၉၆၈–ခု။ (စာမျက်နှာ–၅၄ မှ ၆၂)။

*၆ ဤအလေ့သည် အဋ္ဌကထာကျမ်းပြု အရှင်မဟာဗုဒ္ဓဃောသမထေရ်စသော ဂန္ထဝင်မြောက်ကျမ်းပြုပုဂ္ဂိုလ်ကြီးများတို့၏ အလေ့ပင်ဖြစ်သည်။ အရှင်ဗုဒ္ဓဃောသ၏အဋ္ဌကထာကြီးများတွင် နိဒါန်း၊ နိဂုံး–စသည်တို့၌ မည်သည့်ပုဂ္ဂိုလ်ကတောင်းပန်၍ မည်သည့်အရပ်၌၊ မည်သည့်မင်းလက်ထက်အခါ ဤကျမ်းစာကိုရေးသားခဲ့ရကြောင်း၊ မည်သည့်အချိန်ကာလ၌ လက်စသတ်ခဲ့ရကြောင်း–စသည်ကို ဖော်ပြထားလေ့ရှိပေသည်။

ဆိုပါစို့။ မြန်မာ့သာသနာဝင်၌ အနောက်ဘက်လွန်မင်းသည် ပြည်မြို့ကိုသိမ်းယူရာ၌ 'ရှင်တစ်ဆူ လူတစ်ယောက်ကိုရ၏' ဟူသောစကား၌ 'ရှင်တစ်ဆူ' သည် တောင်ဖီလာဆရာတော်ကို ဆိုလိုသည်။ နာမည်ကျော်တောင်ဖီလာဆရာတော်ကို 'ရှင်ကျော်' ဟူ၍လည်း အစဉ်အဆက်ဆိုခဲ့ကြ၏။ ထို'ရှင်ကျော်' ကား အဘယ်ကိုစွဲ၍ဆိုပါသနည်း။ တောင်ဖီလာဆရာတော်သည် ဝိသတိ ဝဏ္ဏနာကျမ်းနိဂုံး၌ 'ဒဟရကာလတော ယေဝ၊ ပဋ္ဌာယ ကိတ္တိဃောသကော' ဟု ရေးသားတော်မူခဲ့သောကြောင့် အသက်ငယ်စဉ် သာမဏေဘဝကပင် 'ရှင်ကျော်' အဖြစ်ထင်ရှားခဲ့ပုံကို အခိုင်အမာသိကြရ၏။ ထိုတောင်ဖီလာဆရာတော်ကြီးသည် ဝိနယာလင်္ကာရဋီကာကျမ်းကြီး၏ နိဂုံးပိုင်း၌ ဂါထာပေါင်း (၂၃) ဂါထာတို့ဖြင့် မိမိ၏ဘဝတစ်စိတ်တစ်ပိုင်းကို ပေါ်လွင်အောင် ဖော်ထုတ်ရေးသားပြီး နိဂုံးအုပ်ထားခဲ့ပေသည်။*၁ ထိုနည်းတူပင် ပထမဆင်တဲဆရာတော်ကြီး အရှင်ဉာဏသဒ္ဓမ္မသည်လည်း ပါရာဇိကဏ် အဋ္ဌကထာဂဏ္ဌိကျမ်းကိုရေးရာ၌ ကျမ်းပြီးနိဂုံးတွင် (၁၃)ဂါထာတို့ဖြင့် မိမိ၏ဇာတိဌာနနှင့်တကွ ကျမ်းပြုရခြင်းအကြောင်းတို့ကို ပြည့်စုံစွာ ရေးသားတော်မူခဲ့သည်။*၂ နောင်အခါ ဂန္ထန္တရကျမ်းတို့၏ နိဂုံးပိုင်း၌သာမက ကျမ်းဦးအစပဏာမနှင့် နိဒါန်း၌ဖြစ်စေ၊ ကျမ်းလယ်စာသား ကျမ်းစာကိုယ်တစ်နေရာရာဖြစ်စေ ကျမ်းပြုပုဂ္ဂိုလ်၏ ဘဝတစ်စိတ်တစ်ဒေသကိုရေးပြသောအလေ့ပေါ်ထွန်းလာပြီး၊ ထိုမှသည် ဘဝဖြစ်စဉ်တစ်ခုလုံးကို ဖော်ပြသော အတ္ထုပ္ပတ္တိစာပေမျိုး ပေါ်ထွက်လာခဲ့ရပါသည်။ ဤကား ကိုယ်ရေးထေရုပ္ပတ္တိ ပေါ်ထွန်းခဲ့ပုံအကြောင်းဖြစ်သည်။ ယခုဆက်၍ကိုယ်ရေးမဟုတ်သော ထေရုပ္ပတ္တိစာပေအကြောင်းကို ဖော်ပြပေဦးမည်။

ကိုယ်ရေးမဟုတ်သော ထေရုပ္ပတ္တိစာပေတို့တွင် ရှေးဦးပထမတွေ့ကြရသည်မှာ ပုဂ္ဂိုလ်တစ်ဦးချင်း၏ထေရုပ္ပတ္တိမဟုတ်ဘဲ ဆီလျော်စပ်ဆိုင်ရာမထေရ်တို့အကြောင်း အလျဉ်းသင့်သလို စုပေါင်းဖော်ပြသော ထေရုပ္ပတ္တိစာညွန့်ပေါင်းကို ရှေးဦးတွေ့ရသည်။*၃ တွေ့ရပုံမှာ–သက္ကရာဇ် ၁၁၉၃–ခုနှစ်၊ မင်းတိုင်ပင်အမတ် မဟာဓမ္မသင်္ကြံ၏သာသနာလင်္ကာရစာတမ်း၌ သာသနာပြုကျမ်းပြုဆရာတော်ကြီးများ၏ ထေရုပ္ပတ္တိများကိုဖော်ပြထားသည်။*၄ ထို့နောက် သက္ကရာဇ် ၁၁၉၉–ခုနှစ်၊ တတိယ နံမော်ဆရာတော်အရှင်ဝိနန္ဒာသဘ၏ သီလဝိသောဓနီကျမ်းတွင်လည်း ရှေးဆရာတော်ကြီးများ၏ ကျင့်ပုံကျင့်နည်းကို ဆိုင်ရာထေရုပ္ပတ္တိတို့ညှပ်၍ဖော်ပြထားခြင်းမျိုးဖြစ်သည်။*၅

သက္ကရာဇ် ၁၂၁၃–ခုနှစ်တွင် မင်းလှသီရိသီဟသူစုဆောင်းသော ဆရာတော်သံဃာတော် ၁၀၅–ပါး၏ထေရုပ္ပတ္တိစာရင်း လက်ရေးမူတစ်စောင်ပေါ်ထွက်လာ၏။ ထို့နောက် သက္ကရာဇ် ၁၂၄၁–ခုနှစ်တွင် မင်းကြီးမဟာဩဘိရိဇေယျသူဘွဲ့ခံပိဋကတ်တော်အုပ်ဦးယမ်က ရှင်ရဋ္ဌသာရ၊ ရှင်တေဇောသာရ၊ ရှင်အဂ္ဂသမာဓိ၊ ရှင်သီလဝံသတို့၏အဋ္ဌုပ္ပတ္တိလေးစောင်တွဲကိုပြုစုခဲ့ပေသည်။*၆

---

*၁ အရှင်ကေလာသ၏ စစ်ကိုင်းသာသနာဝင်။ ၁၃၄၁–ခုနှစ်။ (စာမျက်နှာ–၉၀၊ ၁၀၇)။
*၂ အရှင်ကေလာသ၏ မန္တလေးသာသနာဝင်။ ပထမတွဲ။ ၁၃၄၃–ခုနှစ်။ (စာမျက်နှာ–၂၂၀)။
*၃ ဇေယျ၏ အမျိုးသားအတ္ထုပ္ပတ္တိအဘိဓာန်(ဆောင်းပါး)။ မြန်မာ့မျက်ပွင့်။ ၁၃၂၃–ခုနှစ်။ (စာမျက်နှာ–၁၂၄၊ ၁၂၆)။
*၄ မဟာဓမ္မသင်္ကြံ၏ သာသနာလင်္ကာရစာတမ်း။ ၁၉၅၆–ခုနှစ်။
*၅ အရှင်ဝိနန္ဒာသဘ၏ သီလဝိသောဓနီ။ ၁၃၅၄–ခုနှစ်။
*၆ တက္ကသိုလ်များစာအုပ်ပြုစုထုတ်ဝေရေးကော်မတီ၊ ပေ၊ ပုရပိုက်စာစဉ်(၄)။ စာပေဗိမာန်၊ ရန်ကုန်မြို့။ ၁၉၇၄–ခုနှစ်။

ထို့နောက် ထေရ်တစ်ပါးချင်းစီ၏ ထေရုပ္ပတ္တိကျမ်းအဖြစ် သက္ကရာဇ် ၁၂၆၃–ခုနှစ်တွင် ရန်ကုန်မြို့ ဟံသာဝတီပုံနှိပ်တိုက်မှ ပဲခူးဆရာဖူးရေးသော ဦးသီလအရှင်မြတ်၏ထေရုပ္ပတ္တိစာတမ်း ထွက်ပေါ်လာ၏။ ထို့နောက် ရှေးပညာရှိများရှာဖွေရေးသားခဲ့ကြပြီးလျှင်၊ သက္ကရာဇ် ၁၂၆၈–ခုနှစ် ရန်ကုန်မြို့ ဂေါ်ဒဝင်လမ်းမတော်ရှိ မြန်မာ့သြဘာစာပုံနှိပ်တိုက်မှရိုက်နှိပ်ခဲ့သော 'အတ္ထုပ္ပတ္တိထူး' စာအုပ်ပေါ်ထွက်ခဲ့ရာ၊ ထိုစာအုပ်တွင် ဘားမဲ့ဆရာတော်[*၁] အကြောင်းဖော်ပြထားလေသည်။ ထို့နောက် ခင်ကြီးဖျော်အတ္ထုပ္ပတ္တိ[*၂] မဟာဝိသုဒ္ဓါရာမိကထေရုပ္ပတ္တိဒီပနီ၊[*၃] ရွှေကျင်ဆရာတော်ကြီးထေရုပ္ပတ္တိစာတမ်း[*၄]–စသည်ဖြင့် ထေရုပ္ပတ္တိစာအုပ်များ စီကာစဉ်ကာပေါ်ထွက်ခဲ့ပေသည်။

### ထေရုပ္ပတ္တိကျမ်းများပြုစုခြင်း၏ ရည်ရွယ်ချက်

ထေရုပ္ပတ္တိကျမ်းပြုပုဂ္ဂိုလ်များသည် အများအားဖြင့် အတ္ထုပ္ပတ္တိခံပုဂ္ဂိုလ်ကို လေးစားကြည်ညိုကာ ရေးသားကြခြင်းဖြစ်၍ ရည်ရွယ်ချက်တို့မှာ မတိမ်းမယိမ်းတူကြသည်က များလေသည်။ ထေရုပ္ပတ္တိကျမ်းများ၌ ဖော်ပြလေ့ရှိသောထေရုပ္ပတ္တိဆရာတို့၏ရည်ရွယ်ချက်တို့ကို အောက်ပါအတိုင်း တွေ့ရှိရသည်။

၁။ ဤအတ္ထုပ္ပတ္တိသည် နောင်လာနောက်သားနောင်ခေတ်လူများအဖို့ အတုယူကာလိုက်နာကျင့်သုံးကြသဖြင့် အကျိုးကျေးဇူးတရား များစွာထွန်းကားနိုင်လေသောကြောင့်–[*၅]

၂။ ဂုဏ်ကောင်းဂုဏ်မြတ်အရပ်ရပ်တို့ဖြင့် ရစ်ပတ်လိမ်းကျံအပ်သည့် ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်တို့၏အကြောင်းအဋ္ဌုပ္ပတ္တိကိုလည်း နောင်လာနောက်သားတို့ နည်းယူမှတ်သားကာ ထိုပုဂ္ဂိုလ်မြတ်တို့၏ဂုဏ်ကျေးဇူးတို့ကိုသိရှိကြရသဖြင့် သဒ္ဓါပသန္န ဗလဝစေတနာတို့ကို ဖြစ်စေနိုင်ရကား–[*၆]

၃။ ထက်မြက်ထူးချွန်သော ဤကဲ့သို့သောပုဂ္ဂိုလ်ကျော်တို့၏အဋ္ဌုပ္ပတ္တိများမှာ နောင်လာနောက်သားတို့အား သမိုင်းအထောက်အထားအတွက် မဆွကပင်ရှာဖွေသိမ်းဆည်းထားထိုက်ရကား–[*၇]

၄။ ဆရာတော်ကြီး၏အကြောင်းအရာကိုပြ၍ ကြည့်ရှုကြသူရဟန်းရှင်လူတို့အား ထက်မြက်စေသင့်သောအရာ၌ ထက်မြက်စေရန်၊ သံဝေဂဖြစ်သင့်သောနေရာ၌ သံဝေဂဖြစ်စေရန်၊ ထိုသံဝေဂဉာဏ်ကိုရ၍ ကုသိုလ်တရားများကို တစ်ဒင်္ဂပဟာန်အရင်းခံကာ ပယ်ရှားပြီးလျှင် ကုသိုလ်တရားပွားများ၍ သမုစ္ဆေဒပဟာန်သို့ဆိုက်ရောက်အောင် စိတ်ဓာတ်ကို စင်ကြယ်စေရန် ရည်သန်ကာ–[*၈]

---

*၁ အတ္ထုပ္ပတ္တိထူး။ မြန်မာ့သြဘာစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၈–ခုနှစ်။ (စာမျက်နှာ–၁)။

*၂ ကန်တော်မင်းကျောင်းဆရာတော်၏ ခင်ကြီးဖျော်အတ္ထုပ္ပတ္တိ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၇–ခုနှစ်။

*၃ အရှင်သိရိမင်္ဂလနှင့်လယ်တီပဏ္ဍိတတို့၏ မဟာဝိသုဒ္ဓါရာမိကထေရုပ္ပတ္တိဒီပနီ။ကဝိမျက်မှန်ပုံနှိပ်တိုက်၊ရန်ကုန်မြို့။၁၂၆၉–ခုနှစ်။

*၄ အရှင်ဝိမလ၏ ရွှေကျင်ဆရာတော်ထေရုပ္ပတ္တိ။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၈၈–ခုနှစ်။

*၅ အရှင်အဂ္ဂဝံသ၏ ပြည်၊ နိဗ္ဗိန္ဒချောင်ဆရာတော်ထေရုပ္ပတ္တိကျမ်း။ ၁၉၇၈–ခုနှစ်။ (စာမျက်နှာ–၁၈)။

*၆ ပရိဗက်ဆာ ဆရာလွန်း၏ ရွှေရေးဆောင်ဆရာတော်ကြီးထေရုပ္ပတ္တိကထာ။ ၁၂၉၇–ခုနှစ်။ (စာမျက်နှာ–၈)။

*၇ ဆရာဉာဏ်၏ အဋ္ဌုပ္ပတ္တိအကျဉ်း။ ၁၃၂၈–ခုနှစ်။ (စာမျက်နှာ–၂)။

*၈ အရှင်တေဇဝန္တ၏ ဝိသုဒ္ဓါရုံ၊ ဒီပယင်းဆရာတော်ကြီးမဟာထေရုပ္ပတ္တိပကာသနီကျမ်း။ (စာမျက်နှာ–၅)။

၅။ အစဉ်သတိရစေရန်နှင့် ကောင်းမြတ်ရေးကိုအတုယူနိုင်ကြစေရန်ကို ရည်ရွယ်ပြီးလျှင် အတ္ထုပ္ပတ္တိမှတ်တမ်းများကိုရေးသားကြမြဲ-[*၁]

၆။ ပုဂ္ဂိုလ်ကျော်ဆရာတော်ပညာရှိကြီးတို့၏အတ္ထုပ္ပတ်ကို သရုပ်ဓာတ်ပေါ်အောင် ရေးသားရခြင်းအားဖြင့်လည်းကောင်း၊ ဖတ်ကြားနာခံ ကြည့်ရှုကြရခြင်းအားဖြင့်လည်းကောင်း၊ ထိုပုဂ္ဂိုလ်ကြီးတို့အား ကြည်ညိုရာ, မြတ်နိုးရာ, ချီးမြှောက်ရာရောက်သည်သာမက ပုဂ္ဂိုလ်ကျော် ဆရာတော်မြတ်တို့၏အကြံဉာဏ်ပညာသတ္တိ၊ အကျင့်သီလသတ္တိ၊ လုံ့လရှိတော်မူကြသည်ကို ကျောက်စာတင်၍ ကျောက်တိုင်စိုက်ထားရန်-[*၂]

၇။ ဤကဲ့သို့သောပုဂ္ဂိုလ်မြတ်ကြီးပင် နတ်ထီးစံကြွမရဏာသို့ရောက်ရပါတုံသေး၏တကား၊ ငါတို့လို သူငါစသည်မှာကား အဘယ်ဆိုဖွယ်ရာရှိပါတော့အံ့နည်း-ထိတ်လန့်ခြင်းသံဝေဂ ဓမ္မမရဏာနုဿတိ-စသော ကုသိုလ်တရားဖြစ်ပွားစေနိုင်ရာ ဤမည်သောကျမ်းကို စီရင်ရေးသားပါအံ့-[*၃]

၈။ အချို့သောထေရုပ္ပတ္တိကျမ်းပြုပုဂ္ဂိုလ်တို့ကမူ-

(က) ရူပံ ဇီရတိ မစ္စာနံ၊ နာမဂေါတ္တံ န ဇီရတိ-[*၄] ဟူသော သံယုတ်ပါဠိတော်နှင့်အညီ သတ္တဝါတို့၏ကိုယ်ခန္ဓာရုပ်ကြီး ပျက်စီးပုပ်ဆွေးသွားသော်လည်း အမည်နှင့်အနွယ်ကား မပျက်စီး၊ အရှည်တည်နိုင်ပုံကိုသိစေလို၍ ဤထေရုပ္ပတ္တိကိုရေးသားရသည်-

(ခ) ဒုလ္လဘော ပုရိသာ ဇညော-[*၅] ဟူသော ဓမ္မပဒပါဠိတော်အရ အာဇာနည်ယောကျ်ားမြတ်သည် တစ်ခါတစ်ရံပေါ်လာသည်ဖြစ်၍ ထိုပေါ်လာခဲ့သော အာဇာနည်ပုဂ္ဂိုလ်၏ ကြီးမြတ်သောဂုဏ်တို့ မေးမှိန်ပျောက်ကွယ်ခြင်းမရှိအောင် ထုတ်ဖော်လို၍ ဤအတ္ထုပ္ပတ္တိကိုရေးသားရသည်-

(ဂ) ဝဏ္ဏာရဟဿ စ ဝဏ္ဏကထနံ ပဏ္ဍိတာနံ ပကတီတိ ဒဿေတိ-[*၆] ဟူသော အဋ္ဌကထာဆရာ၏ အင်္ဂုတ္တရနိကာယ်၊ ကေကနိပါတ ပေါတလိယသုတ္တအဖွင့်လာစကားအတိုင်း ချီးကျူးထိုက်သောဂုဏ်ကျေးဇူးရှိသူ၏ဂုဏ်ကို ချီးကျူးခြင်းသည် ရှေးပညာရှိအစဉ်အလာဖြစ်၍ ဤအတ္ထုပ္ပတ္တိကိုရေးသားရသည်-

(ဃ) ပုဂ္ဂလဝိသေသော ဉာနိတဗ္ဗော-[*၇] ဟူသော ဋီကာဆရာ၏ မဇ္ဈိမနိကာယ် ဥပရိပဏ္ဏာသပါဠိ၊ ဝိဘင်္ဂဝဂ္ဂ၊ ဒက္ခိဏာဝိဘင်္ဂသုတ်အဖွင့်စကားအတိုင်း ချီးကျူးထိုက်

*၁ ရှင်မဟာဗုဒ္ဓဃောသ ဦးဘသန်း၏ ဓနုဖြူမြို့၊ မဟာဂန္ဓာရာမိကထေရုပ္ပတ္တိအကျဉ်း။ ၁၉၃၉-ခုနှစ်။ (စာမျက်နှာ-၁)။

*၂ အရှင်တိက္ခ၏ ပုဂံမြို့၊ လယ်ယားနတ်ထောင့်ကျောင်းဆရာတော်ကြီးထေရုပ္ပတ္တိဒီပနီ။၁၂၉၆-ခုနှစ်။ (စာမျက်နှာ-ဃ)။

*၃ အရှင်ပုညာနန္ဒ၏ ဓနုဖြူမြို့၊ သဒ္ဓမ္မဇောတိကာရာမိကဆရာတော်ကြီးဖြစ်တော်ပုံအစဉ်။၁၂၉၇-ခုနှစ်။ (စာမျက်နှာ-၂)။

*၄ သံ၊ ၁။ ၄၀။

*၅ ဓမ္မပဒ၊ ဂါထာ-၁၉၃။ နု၊ ၁။ ၄၂။

*၆ အံ၊ ဋ္ဌ၊ ၂။ ၅၉။

*၇ ဥပရိ၊ ဋီ၊ ၃။ ၄၁၂။

သောပုဂ္ဂိုလ်၏ ထူးခြားသောဂုဏ်အရပ်ရပ်ကိုသိရှိအောင် ထင်ထင်ရှားရှား ပြခြင်းငှာထိုက်၏–ဟူသောရည်ရွယ်ချက်ဖြင့် ဤအတ္ထုပ္ပတ္တိကိုရေးသားရသည်–

(၄) 'သရီရံ ခဏဝိဒ္ဓံသိ၊ ဂုဏာ ကပ္ပန္တဋ္ဌာယိနော–*၁ ဟူသော မဟာရဟနီတိဂါထာအရ လည်း သတ္တဝါတို့၏ရုပ်ခန္ဓာကိုယ်ကြီးပျက်စီးသော်လည်း ၎င်းတို့၏ ကောင်းမြတ်လှသောဂုဏ်တို့ကား ပျက်စီးခြင်းမရှိသည်ဖြစ်၍ ဤအတ္ထုပ္ပတ္တိကိုရေးသားရသည်–

စသည်ဖြင့် ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာနှင့် နီတိ–စသောကျမ်းဂန်စာပေလာ ညွှန်ကြားချက်များအရ အတ္ထုပ္ပတ္တိစာပေကိုပြုစုရေးသားရကြောင်း ဖော်ပြထားကြပါသည်။

**ထေရုပ္ပတ္တိစာပေ ဝေဖန်သုံးသပ်ခြင်း**

အထက်၌ဖော်ပြထားသည့်အတိုင်း ရှေးကရေးကြကုန်သောထေရုပ္ပတ္တိတို့တွင် မထေရ်ကျော်တို့၏အကျင့်သီလ စသည်ကိုအတုယူစေရန်–ဒိဋ္ဌာနုဂတိ၊ ကြည်ညိုစေရန်–ပသန္န၊ ထိုမထေရ်တို့ကဲ့သို့ ကြိုးပမ်းလိုစိတ်ရှိစေရန်–အတိသမ္ဘာဆန္ဒ၊ စာပေပရိယတ်တတ်မြောက်စေရန်–ပရိယတ္တိကောဝိဒ၊ အကျင့်သီလပြည့်စုံစေရန်–သီလဝန္တ၊ ထိုမထေရ်တို့၏ မရဏာတရား မကျော်လွှားနိုင်ပုံကိုသိမြင်စေရန်–သံဝေဇနိယ မရဏာနုဿတိ၊ ဆရာသမားအနွယ်အဆက်ကိုထိန်းသိမ်းရန်–ဝံသာနုရက္ခိတ ဟူသောရည်ရွယ်ချက်အမျိုးမျိုးတို့ဖြင့် ရည်သန်ရေးသားခဲ့ခြင်းကြောင့် အဆိုပါထေရုပ္ပတ္တိတို့သည် ကြည်ညိုဖွယ်ရာအကြောင်းအရာများဖြင့်သာပြည့်လျှမ်းနေမည်မှာ အမှန်ဖြစ်လေသည်။ ထို့ကြောင့်ပင် ကာလကြာလတ်သောအခါ ထိုရှေးရေးထေရုပ္ပတ္တိတို့ကို ပညာရှင်တို့က အောက်ပါအတိုင်း ဝေဖန်သုံးသပ်ခဲ့ကြပြန်လေသည်။

'ထိုထိုထေရုပ္ပတ္တိတို့သည် ပြုစုသူတို့၏အဇ္ဈာသယအလျောက် အမျိုးမျိုး အထွေထွေဖြစ်နေကြမည်လည်း သဘာဝတစ်ခုပင်ဖြစ်လေသည်။ မည်သို့ပင်အမျိုးမျိုး အထွေထွေဖြစ်နေစေကာမူ တူညီသောအချက်ကား မိမိတို့ပြုစုရာထေရုပ္ပတ္တိရှင်သည် မည်ကဲ့သို့သောဂုဏ်ကျေးဇူးတို့နှင့်ပြည့်စုံပါသည်ဟူသည်ကို ဖော်ထုတ်ခြင်းပင်တည်း။ ထိုသို့ဖော်ထုတ်ရာ၌ သက်ဆိုင်သူတို့က ပီတိသောမနဿဖြစ်ကြသကဲ့သို့ မသက်ဆိုင်သူတို့ကား ဥပေက္ခာမှုပြုကြပေလိမ့်မည်။ ထေရုပ္ပတ္တိ အနှစ်သာရ ရှိ,မရှိကိုကား သမိုင်းက ဆုံးဖြတ်ပေလိမ့်မည်'–ဟုဖြစ်သည်။*၂

ထေရုပ္ပတ္တိရှင်ပုဂ္ဂိုလ်၏ လူသားတစ်ဦးအနေဖြင့်တွေ့ကြုံဖြစ်ပျက်ခဲ့သည့် လောကီရေးအဖြစ်အပျက်များကို အရေးနည်းပြီး ထေရုပ္ပတ္တိရှင်ပုဂ္ဂိုလ်၏ လောကုတ္တရာရေး ဂုဏ်ပုဒ်များကိုသာ အရေးများကြသည်။ ထေရုပ္ပတ္တိရှင်ပုဂ္ဂိုလ်၏ဂုဏ်ထူးဝိသေသကို ထုတ်ဖော်ချီးကျူးလိုသည့်ဆန္ဒနှင့် သဒ္ဓါတရားလွှမ်းကဲနေသည်ဖြစ်၍ အချို့ထေရုပ္ပတ္တိများ၌ သဘာဝအမြင်နှင့်ကြည့်လျှင် ဆန့်ကျင်ဘက်ဖြစ်သည့် ဘုန်းတန်ခိုးများ

*၁ အရှင်မဟာသီလဝံသ၏ မဟာရဟနီတိ။ (ဂါထာ–၂၄)။ ၁၉၁၅–ခုနှစ်။ (စာ–၁၈)။

*၂ ဦးဓမ္မာဘိဝရ၏ ပန်းတောင်းမဟာထေရုပ္ပတ္တိကထာ။ ၁၃၃၅–ခုနှစ်။ (စာ–ခ)။

အကြောင်းကိုပင် ဒဏ္ဍာရီဆန်ဆန်ရေးသားထားကြသည်။ လူ့ဘဝ၌ အဆိုးအကောင်း ဟူ၍ ဆန့်ကျင်ဘက်နှစ်ခုရှိစမြဲဖြစ်ရာ ထေရုပ္ပတ္တိများ၌ အဆိုးကိုမြုပ်ကွယ်ထားပြီး အကောင်းကိုသာဖော်ထုတ်လေ့ရှိကြသည်။ ထေရုပ္ပတ္တိများတွင် အတ္ထုပ္ပတ္တိ၏ အနှစ်သာရကနည်းပြီး ဘုန်းတော်ဘွဲ့ကများနေသည်။ ထုတိဩဘာကလွှမ်းကဲ နေသည်' –*၁ ဟုဖြစ်သည်။

ထေရုပ္ပတ္တိရေးသားခြင်းနှင့်စပ်၍ မဟာဒွါရနိကာယ ပဌမသာသနာပိုင်အဂ်ပူဆရာတော် ဘုရားကြီးအရှင်ဝိစိတ္တာလင်္ကာရ၏ဩဝါဒတစ်ရပ်ကို မှတ်သားဖွယ်ရာတင်ပြရသော်၊ ဆရာတော် ဘုရားကြီးက တပည့်ဖြစ်သူ ကန်တွင်းဆရာတော် အရှင်သုဘာသိတအား–

'သုဘာသိတ၊ ဆရာကွယ်လွန်လတ်သော် ဆရာ့ထေရုပ္ပတ္တိကျမ်းကို ကြိုးပမ်းရန် မှတ်တမ်းမှတ်စာ ရှာဖွေဆည်းပူးနေကြောင်း ဆရာကြားရသည်၊ မှန်ပါ၏လော။ (မှန်ပါသည်ဘုရား)။ အေး–အေး–ရေးလျှင် ဟုတ်တိုင်းမှန်ရာကိုရေး၊ သိဿာနုသိဿ တို့အတွက် နယဂ္ဂါဟ စံမှီး၍ ဉာဏ်ကြီးဖွယ် ဗဟုသုတပြန့်ပွားဖွယ် နည်းယူဖွယ် သာသနာစိတ်ဝင်စား၍ နောက်သားတို့ အားကျဖွယ်များကို အဓိကပဓာန ရည်ရွယ် ချက်ထား၍ရေးသားရန်လို၏' –ဟူ၍ မိန့်ကြားတော်မူပါသည်။*၂

တဖန်ထပ်၍ ဆဌသံဂီတိမဟာနာယက အဘိဓဇမဟာရဋ္ဌဂုရု မစိုးရိမ်ဆရာတော်ကြီး ဦးသုရိယာဘိဝံသ၏ထေရုပ္ပတ္တိစာပေပြုစုခြင်းဆိုင်ရာဩဝါဒတစ်ရပ်ကိုတင်ပြရသော်၊ ဆရာတော်ကြီး က တပည့်ဖြစ်သူ အရှင်ရာဇဓမ္မအား–

'လူတစ်ယောက်ရဲ့အတ္ထုပ္ပတ္တိကိုရေးမယ်ဆိုရင် သူ့ရဲ့ကောင်းတဲ့အကြောင်း တွေရော၊ မကောင်းတဲ့အကြောင်းတွေရော ရေးမှ ပြည့်ဝစုံလင်တာကွ။ ပုထုဇဉ် ဆိုတာ ဘယ်လောက်ပဲ သူတော်ကောင်းဆိုပေမယ့် မကောင်းတဲ့စိတ်အစဉ်ကလေး ကတော့ ဖြစ်တတ်သေးတာပဲ၊ အဲဒီတော့ ကောင်းတဲ့အပိုင်းကိုသာကွက်ပြီးရေးမယ် ဆိုရင် အတ္ထုပ္ပတ္တိဟာဘယ်ပြည့်စုံမလဲ။ ငါကိုယ်တိုင်တော့ မရေးချင်ဘူး၊ ရေးမယ့်သူ ရှိရင် အမှန်အတိုင်းပြောမယ်၊ ငါပြောတဲ့အတိုင်းသာရေးကြ' –ဟူ၍ မိန့်တော်မူဖူး ပါသည်။*၃

နောက်ပိုင်းကာလ၌ ထေရုပ္ပတ္တိကျမ်းပြုပုဂ္ဂိုလ်များသည် ခေတ်အလိုက် ပေါ်ထွန်းလာသော အတ္ထုပ္ပတ္တိစာပေတို့၏ ရေးသားပုံရေးသားနည်းစနစ်များကို အတုယူနည်းမီကာ ပြုပြင်ရေးသားခဲ့ ကြသည်။ ဤအကြောင်းနှင့်စပ်၍ လူထုဒေါ်အမာက–

'ဗမာစာပေမှာ ထေရုပ္ပတ္တိ–ဆိုတဲ့ ဆရာတော်ကြီးတွေရဲ့ဘဝဖြစ်စဉ်ကိုရေးသား တဲ့စာဟာ ဟိုစောစောကြီးကစပြီးရှိခဲ့တယ်။ ယနေ့အထိလဲရှိနေတုန်းပါပဲ။ အဲဒီလို

*၁ ပါရဂူ၏ မြန်မာအတ္ထုပ္ပတ္တိသမိုင်း (စာတန်း)။ (စာမျက်နှာ–၁၁)။
*၂ ဆရာတော်ဦးသုဘာသိတ၏ အဂ်ပူမဟာထေရုပ္ပတ္တိ။ ၁၃၁၇–ခုနှစ်။ (စာမျက်နှာ–၄၇)။
*၃ ဦးရာဇဓမ္မာဘိဝံသ၏ ဘဒ္ဒန္တသူရိယာဘိဝံသ၏ထေရုပ္ပတ္တိကထာ။ (စာမျက်နှာ–၈)

ရှိရာမှာ ရေးပုံရေးနည်းကလဲ တယ်မပြောင်းခဲ့ဘဲ အကြာကြီးတစ်ပုံစံတည်းနဲ့ သွားခဲ့ပါတယ်။ ကျွန်မသတိထားမိသလောက်တော့ သက်တော်(၁၀၂)နှစ်အထိရှည်တဲ့ နဝမမြောက် ရွှေကျင်သာသနာပိုင်စံကင်းဆရာတော်ကြီးရဲ့ထေရုပ္ပတ္တိရေးတဲ့အခါမှာတော့ ပုံစံကတော်တော်ပြောင်းလဲလာတာ တွေ့ရပါတယ်။ ရေးပုံမှာ ပါဠိအလွန်နည်းလာပြီး ခေတ်ဗမာစကားပြေကို ချောချောမွေ့မွေ့ရေးတဲ့အပြင် ဆရာတော်ကြီးရဲ့ ဘဝဖြစ်စဉ်အကြောင်းအရာတွေကိုသာမကဘဲ ဆရာတော်ကြီးသိမီကြုံကြိုက်ခဲ့တဲ့ အရေးကြီး လူမှုရေး, နိုင်ငံရေး, စီးပွားရေးဆိုင်ရာ ရေးကွင်းရေးကွက်တွေကိုလဲ ဆရာတော်ကြီးကပြောပြတဲ့အတိုင်း ထည့်ရေးလာတာတွေ့ရပါတယ်။ ဒါကြောင့် စံကင်းဆရာတော်ရဲ့ထေရုပ္ပတ္တိဟာ နှစ်(၁၀၀)ခေတ်ကြေးမုံကြီးကြည့်ရသလိုပဲ စိတ်ဝင်စားစရာအလွန်ကောင်းပါတယ်'[*၁]-ဟု တင်ပြထားခဲ့သည်။

'သမိဒ္ဓေါဒယဆရာကြီးဒေါ်မာလာရီ၏ နှစ်ကိုးဆယ်ကျော်ဘဝခရီး'တွင် ထေရုပ္ပတ္တိကျမ်းပြုစုခြင်းနှင့်စပ်၍ ကျမ်းပြုဆရာတော် အရှင်နန္ဒမာလာဘိဝံသ၏ခံယူချက်ကို တင်ပြထားသည်မှာလည်း ထေရုပ္ပတ္တိကျမ်းပြုပုဂ္ဂိုလ်တိုင်းအတွက် အတုယူဖွယ်နှင့် ကျင့်ဆောင်ဖွယ်ဖြစ်တော့သည်။

အဋ္ဌုပ္ပတ္တိရှင်မှာ သူတော်စင်သီလရှင်ဆရာကြီးတစ်ဦးဖြစ်၍ ဤအဋ္ဌုပ္ပတ္တိကို သူတော်စင်ရှုထောင့်မှတင်ပြထားပါသည်။ ထိုသို့တင်ပြရာ၌ အဋ္ဌုပ္ပတ္တိစာပေ၏ အသက်ဖြစ်သည့် အချက်အလက်မှန်ကန်တိကျမှုကို ဦးစားပေးထားပါသည်၊ ဂုဏ်မြောက်အောင် တမင်ချဲ့ထွင်ရေးသားခြင်းမျိုး၊ တစ်ဖက်ကိုနှိမ်ချခြင်းမျိုးတို့ကို အတတ်နိုင်ဆုံး ရှောင်ရှားထားပါသည်၊ ချောင်ဆရာကြီး၏ စွမ်းဆောင်ချက်များကို တင်ပြသကဲ့သို့ပင် ပျော့ကွက်ဟာပျက် အားနည်းချက်တို့ကိုလည်း မထိမ်မဝှက် တင်ဆက်ထားပါသည်'[*၂]-ဟူ၍ဖြစ်ပါသည်။

ထေရုပ္ပတ္တိစာပေရေးရာတွင် သီလဝန္တဖြစ်သောပုဂ္ဂိုလ်တို့အကြောင်းကို ရေးရသည်ကများလေရာ ထေရုပ္ပတ္တိအရေးခံပုဂ္ဂိုလ်၏ သီလဂုဏ်, သမာဓိဂုဏ်ဟူသော ဂုဏ်ထူးအနှစ်ပေါ်လွင်အောင် ရေးရသည်ဖြစ်၍ စာရေးသူတို့အဖို့မှာ များစွာဝန်လေးဖွယ်ကောင်းလှပါသည်။ နေရာများစွာတို့တွင် ခေတ်အတ္တုပ္ပတ္တိဆရာတို့၏မူအတိုင်း လိုက်နာ၍ရသည်လည်းရှိ၏၊ လိုက်နာ၍မရသည်လည်းရှိပေ၏။ ဤအချက်နှင့်စပ်၍အကျင့်သီလတွင်စံပြဟုကျော်ကြားသည့် ဘုန်းတော်ကြီးဦးသီလ၏ထေရုပ္ပတ္တိကိုပြုစုခဲ့သော ညောင်လေးပင်တောရဆရာတော်ဥူးအရိယ၏အတွေ့အကြုံနှင့် အယူအဆတို့ကို တင်ပြလိုပါသည်။

ဘုန်းတော်ကြီးဦးသီလသည် သဃ်န်းကျွန်းမှ ဒလဘက် ကွမ်းခြံကုန်းသို့ကြွသောအခါလည်း ခရီးအကြား မီးရထားနှင့်ဆိုင်မိသဖြင့် မီးရထားရပ်ပေးလေသည်။ လူပေါင်း

---

*၁ လူထုဒေါ်အမာ၏ အတ္တုပ္ပတ္တိစာပေ(စာတန်း)။ စနေစာပေပိုင်း။ (စာ-၅၈)။

*၂ အရှင်နန္ဒမာလာဘိဝံသ၏ ဒေါ်မာလာရီ နှစ်ကိုးဆယ်ကျော်ဘဝခရီး။ ၁၉၇၅-ခုနှစ်။ (စာ-၁၃)။

များစွာ ဆင်း၍ရှိခိုးကြ၏။ စက်ဗိုလ်များလည်းဆင်း၍ ရှိခိုးပြီးလျှင် 'ဘာပစ္စည်းများ အလိုရှိပါသလဲ' ဟု လျှောက်၏။ 'ငါ့အား ပြည့်စုံ၏။ အလိုမရှိ' ဟု ဆိုလတ်သော် ဆလံအကြိမ်ကြိမ်ပေး၍ ရထားသို့ပြန်တက်ကုန်သတတ်။ (ရှေးစာမှ)။

ရထားလမ်းပေါ်တွင် ဘုန်းတော်ကြီး သံပြိုင်၍ရပ်နေ၏၊ ထိုအခိုက် မီးရထား ရောက်လာ၏၊ စက်ခုတ်၍မရဟူ၍လည်းကောင်း၊ ပံသုကူသင်္ကန်း ဆူးငြိ၍ရပ်နေ၏။ ကမ္ဗဋ္ဌာန်းထိုင်နေ၏၊ မီးရထားစက်ခုတ်၍မရဟူ၍လည်းကောင်း ကြားရသေး၏။ နိုင်မာသောယုတ္တိမရ။ အဆင့်ဆင့် သဒ္ဓါလွန်ခြင်းသာဟု ပညာရှိတို့ပြုံးတော်မူကုန်၏။ 'ဗာလသည် ချီးမွမ်းစကားဖြင့် ပဏ္ဍိတအား ဒဏ်ပေးတတ်' ၏။ သဒ္ဓါဖြင့် ယုံကြည် လျက် ပညာမဆင်ခြင်လျှင် အရှက်ရတတ်သည်။ ပညာဖြင့် ဆင်ခြင်လျက် သဒ္ဓါ မယုံကြည်လျှင် စဉ်းလဲတတ်သည်။ သဒ္ဓါနှင့်ပညာညီမျှလျှင် အပြစ်ကင်းသည်။

၁၂၆၃–ခုနှစ်ပုံနှိပ်သော (ဘုန်းတော်ကြီးဦးသီလထေရုပ္ပတ္တိ)*၁ စာအုပ်ကို ဘုန်းတော်ကြီးအား ရဟန်းတစ်ပါးဖတ်ပြဖူး၏။ ဘုန်းတော်ကြီးက 'ဟုတ်တာလဲပါ၏။ အချို့ကား ပို၍ရေးထားသည်'ဟု မိန့်ဆိုတော်မူသတတ်။ (သထုံ နန္ဒဝန်ဆရာတော် အရှင်ဦးဥတ္တရ ပြန်၍မိန့်ကြားခြင်းဖြစ်သည်။) ယခု ဤစာအုပ်ကား*၂ ဤနည်းမျိုး မဟုတ်ဟု ဝန်မခံ။ အထပ်ထပ်စဉ်းစားရာ ယုတ္တိခိုင်မာအံ့ထင်သည်တို့ကိုသာ စီစဉ်ကြောင်းဝန်ခံ၏။ သဒ္ဓါထက်သန်သူ၏လက်သို့ ရောက်လတ္တံ့သော ကလောင်တန် သည် ပင်ကိုယ်အားဖြင့် အပိုရေးတတ်ဟန်ရှိလေသည်။*၃–ဟူ၍ ဖြစ်ပါသည်။

ဘုန်းတော်ကြီးဦးသီလ၏ ထေရုပ္ပတ္တိစာအုပ်ကို အလွန်ကောင်းမွန်ကြောင်း၊ အထူးသဖြင့် အရေးကျစ်လျစ်, တင်ပြပုံရှင်းလင်း, အကိုးအကားလုံလောက်, ဝေဖန်ရှင်းလင်းချက်ပြည့်စုံသော စာအုပ်ဖြစ်ကြောင်း ချီးကျူးကြရာ၊ ဤနေရာ၌ ဆရာတော်ကြီးဦးအရိယမထေရ်ကြီးသည် ထိုစာအုပ်ကို မည်သို့ပြုစုတော်မူပုံအကြောင်းကို ကောင်းစွာသိမီလိုက်သူ စာရေးဆရာကြီး လူထုဦးလှ၏တင်ပြချက်မှ ကောက်နုတ်ဖော်ပြလိုပေသည်။

ညောင်လေးပင်တောရကြီးဆရာတော် ပြုစုရေးသားတဲ့ ဘုန်းတော်ကြီးဦးသီလ ထေရုပ္ပတ္တိဟာ ဘာသာရေးသာသနာရေးဘက်က ပုဂ္ဂိုလ်များဆိုင်တဲ့ အတ္ထုပ္ပတ္တိ စာအုပ်ကောင်းတစ်အုပ်ဖြစ်ပါတယ်။ မကောင်းလည်းဘဲ မခံနိုင်ဘူး၊ အတ္ထုပ္ပတ္တိကို ပြုစုရေးသားတဲ့ပုဂ္ဂိုလ်က ခခေတ်အခေါ် သေသေချာချာကွင်းဆင်းလေ့လာမှတ်သား ပါတယ်၊ အထပ်ထပ်ပြန်စစ်ပြန်ရေးပါတယ်။

---

*၁ ဆရာဖူး၏ ဦးသီလအရှင်မြတ်၏ထေရုပ္ပတ္တိစာတမ်း။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၃–ခုနှစ်ကို ဆိုလိုပါသည်။

*၂ ညောင်လေးပင်ဆရာတော် ဦးအရိယ၏ ဘုန်းတော်ကြီးဦးသီလထေရုပ္ပတ္တိကိုဆိုလိုပါသည်။

*၃ ညောင်လေးပင်ဆရာတော် ဦးအရိယ၏ ဘုန်းတော်ကြီးဦးသီလထေရုပ္ပတ္တိ။ ဒုတိယအကြိမ်။ (စာမျက်နှာ–၁၀၈)။

ရဟန္တာလိုကျော်ကြားတဲ့ ဘုန်းတော်ကြီးဦးသီလ သက်တော်ထင်ရှားရှိစဉ် လှည့်လည်သွားလာ သာသနာပြုခဲ့တဲ့ဒေသတွေကို စာအုပ်ရေးသားပြုစုဖို့ကြံတဲ့ ဆရာတော်ဦးအရိယက သာသနာရေးကိစ္စများနဲ့ပတ်သက်ပြီး အကြိမ်ကြိမ်ရောက်တယ်၊ ရောက်တဲ့နေရာတိုင်းမှာ ဘုန်းတော်ကြီးဦးသီလကို မီလိုက်သူများကိုတွေ့ပြီး မေးမြန်းစုံစမ်းမှတ်သားတယ်။ ဆရာတော်တရားကျင့်တဲ့ဂူ၊ ဆရာတော်တည်သွားတဲ့ ကျောင်းတွေကို ကိုယ်တိုင်သွားတယ်။ ဒီနောက် ဘုန်းတော်ကြီးဦးသီလရဲ့ သီလဂုဏ် သမာဓိဂုဏ်များနဲ့ပတ်သက်တဲ့အချက်အလက်တွေကိုကြည်ညိုဖွယ်ဖြစ်အောင် ရေးတယ်။ ညောင်လေးပင်တောရကျောင်းတိုက်ကြီးမှာ ညနေဘုရားဝတ်တက်ကြလို့ အပြီး သံဃာတွေစုံတုန်း ညစဉ် တစ်ပုဒ်တစ်ပုဒ်ဖတ်ပြတယ်။ တစ်ဝါတွင်းလုံး ရေးလိုက်ဖတ်လိုက်လုပ်ပြီးတဲ့နောက် ပိုကောင်းအောင် ပြန်ရေးတယ်။ ဖြည့်စရာများကို ဖြည့်တယ်။

ဝါကျွတ်တော့ သာသနာရေးကိစ္စများရှိလို့ကြွရပြန်တဲ့အခါ ဘုန်းတော်ကြီး ဦးသီလနဲ့ဆိုင်တဲ့ အချက်အလက်တွေ ထပ်စုပြန်တယ်။ ရပြန်တော့ သူ့နေရာနဲ့ သူထပ်ဖြည့်ပြီး အသစ်ပြုပြင်ရေးပြန်တယ်။ ဝါတွင်းဘုရားဝတ်တက်အပြီးမှာ ဖတ်ပြပြန်တယ်။

၂–နှစ်လောက် ဒီလိုကြိုးစားရေးတယ်။ လွယ်လွယ်နဲ့ရှင်းရှင်း ဖတ်သူတိုင်း နားလည်ဖို့ရည်သန်တာမို့ ရည်မှန်းတဲ့အတိုင်း အောင်မြင်တဲ့စာအုပ်ကောင်းတစ်အုပ် ဖြစ်လာရော–ဟူ၍ဖြစ်ပါသည်။*၁

ဤသို့အားဖြင့် အတ္ထုပ္ပတ္တိရေးသူတို့မှာ ပြင်ပလုပ်ငန်းအနေဖြင့် ဆိုင်ရာအချက်အလက်များကို ပြည့်စုံနိုင်လုံအောင်ရှာဖွေလေ့လာကြရသည့်နည်းတူ အတွင်းအဇ္ဈတ္တအနေအားဖြင့် စဉ်းစားနိုင်းချိန်နိုင်သောဉာဏ်က္ခန္ဓော၏ရင့်ကျက်မှု၊ ဂုဏ်ကျေးဇူးကိုနက်နက်နဲနဲသိမြင်နိုင်မှု၊ အကျိုးအကြောင်း ဖစ်မြစ်ကိုခွဲခြားနားလည်နိုင်မှု၊ ယထာဘူတသဘာဝကိုကျနထင်ထင် သိမြင်နိုင်မှု–စသည်တရားများလည်း အထူးလိုအပ်ကြောင်း တင်ပြလိုပါသည်။

မည်သို့ပင်ဆိုကြစေကာမူ အတ္ထုပ္ပတ္တိစာပေပြုစုသူတို့မည်သည် လောကီတရားရုံးတော်များတွင် ကျမ်းကိုထိပ်ထက်၌ရွက်၍ထွက်ဆိုကြရသူတို့ပမာ*၂ အတ္ထုပ္ပတ္တိရှင်ပုဂ္ဂိုလ်၏ဖြစ်ကြောင်း ကုန်စင်ကို အမှန်အတိုင်းထုတ်ဖော်ရေးသားရခြင်းအလုပ်ဖြစ်သည့်အတွက် ဤအလုပ်,ဤတာဝန်သည် ခက်ခဲနက်နဲသည်နှင့် အလွန်တာဝန်ကြီးလေးကြောင်းကို မည်သူမျှငြင်းကွယ်နိုင်မည် မဟုတ်ပေ။ ။

---

*၁ လူထုဦးလှ၏ မိတ်ဆက်မှ။ ကျော်ဝင်းမောင်၏ ဆရာကြီးဦးရာဇတ်။ ပြည်ရွှေဘိုပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၇၂–ခုနှစ်။ (စာမျက်နှာ–၉၊ ၁၀)။

*၂ 'The biographer is an artist upon oath.' by Desmond Mc-Carthy. JBRS, Vol. LXI, Pt. i & ii. Dec, 1978. (Page-277).

နောက်ဆက်တွဲ(၂)

# လယ်တီဆရာတော်ဘုရားကြီး၏ ဘဝဖြစ်တော်စဉ်ထေရုပ္ပတ္တိစာပေများ

## ၁။ လယ်တီပဏ္ဍိတ၏ လယ်တီထေရုပ္ပတ္တိဘုန်းတော်ဘွဲ့*၁

လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ လယ်တီထေရုပ္ပတ္တိဘုန်းတော်ဘွဲ့ဂါထာများသည် လယ်တီဆရာတော်ကြီးဖွားတော်မူသည့် သက္ကရာဇ် ၁၂၀၈–ခုနှစ်မှ သက်တော်(၆၀)၊ ဝါတော်(၄၀) ပြည့်သည့် သက္ကရာဇ် ၁၂၆၈–ခုနှစ်အထိ ဖြစ်တော်စဉ်တို့ကို ဂါထာပေါင်း(၅၀)၊ မြန်မာနိဿယ နှင့်တကွ ပူးတွဲရေးသားထားခြင်းဖြစ်ပြီး အစောဆုံးပေါ်ထွက်လာသော လယ်တီထေရုပ္ပတ္တိစာအုပ် ဖြစ်ပါသည်။ ဆရာဦးမောင်ကြီးသည် ဤထေရုပ္ပတ္တိဂါထာများကို ဆရာတော်ကြီးနှင့်အတူနေစဉ် အခါကရေးခဲ့ခြင်းဖြစ်၍ အချက်အလက်ဆိုင်ရာဘက်၌ သံသယဖြစ်ဖွယ်အကြောင်းမရှိပေ။ လယ်တီဆရာတော်ကြီး မန္တလေးမြို့သို့စာသင်ကြွလာသောခုနှစ်နှင့် မန္တလေးမြို့မှ မုံရွာသို့ပြန်ကြွသောခုနှစ်၊ လယ်တီတိုက်ကြီးတည်ထောင်သောခုနှစ်တို့ကို ဤထေရုပ္ပတ္တိကြောင့် အတိအကျသိရသည်။

## ၂။ မောင်ရွှေ၏ လယ်တီမဟာထေရုပ္ပတ္တိကထာ

လယ်တီပဏ္ဍိတဦးမောင်ကြီး၏ လယ်တီထေရုပ္ပတ္တိဘုန်းတော်ဘွဲ့ထေရုပ္ပတ္တိ ပေါ်ထွက်ခဲ့ပြီး နောက် ဒုတိယမြောက်ထွက်ပေါ်လာသော လယ်တီထေရုပ္ပတ္တိမှာ ပညာအလင်းသတင်းစာ အယ်ဒီတာမောင်ရွှေ၏ လယ်တီမဟာထေရုပ္ပတ္တိကထာ*၂ စာအုပ်ငယ်ဖြစ်သည်။ ဤစာအုပ်ငယ်ကို လယ်တီဆရာတော်ကြီးပြန်လွန်တော်မူချိန် သက္ကရာဇ် ၁၂၈၅ (အေဒီ–၁၉၂၃)ခုနှစ်တွင် ရုတ်ချည်း ရေးသားပုံနှိပ်ကာ ဈာပနပွဲ၌ဖြန့်ဝေခဲ့သောစာအုပ်ဖြစ်သည်။ ထိုစာအုပ်၏မျက်ဖုံးတွင် 'လယ်တီ ဆရာတော်ဘုရားကြီး၏ဖွားရာဇာတိမှစ၍ ပျံလွန်တော်မူသည့်တိုင်အောင် ဖြစ်ဖြစ်သမျှသော အကြောင်းအရာများကို အကျဉ်းချုပ်အားဖြင့်ရေးသားဖော်ပြမည်' ဟုဖော်ပြထားသော်လည်း လယ်တီဆရာတော်ကြီးဖွားမြင်ပုံကို ဇာတာနှင့်တကွအကြောင်းအရာအနည်းငယ်ကိုသာဖော်ပြထား သည်။ သက္ကရာဇ် ၁၂၆၉ (အေဒီ ၁၉၀၇) ခုနှစ်တွင် လယ်တီဆရာတော်ကြီး ရခိုင်ပြည်နယ် စစ်တွေမြို့သို့ ကြွတော်မူပုံ၊ စစ်တွေမြို့ကကြိုဆိုကြပုံ၊ စစ်တွေမြို့၌တရားဟောကြားပြီး သင်္ဘော ဖြင့်ပြန်ကြွတော်မူပုံတို့ကိုသာ တခမ်းတနားရေးသားထားပါသည်။*၃ ဆရာတော်ကြီး ပြန်လွန်တော် မူချိန်ကရေးဖွဲ့ခဲ့ကြသော ဂါထာ,ကဗျာလင်္ကာတေးထပ် စသည်တို့ကိုလည်း ထည့်သွင်းဖော်ပြ ထားပါသည်။

---

*၁ ဤဘုန်းတော်ဘွဲ့ဂါထာများကို– (၁) ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၈–ခုနှစ်တွင် ပထမအကြိမ်။ (၂) ကဝိမျက်မှန် ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၆၉–ခုနှစ်တွင် ဒုတိယအကြိမ်။ (၃) မောင်ရွှေ၏ လယ်တီမဟာထေရုပ္ပတ္တိကထာ၊ ၁၂၈၅–ခုနှစ်တွင် တတိယအကြိမ်။ (၄) လယ်တီပဏ္ဍိတ၏ ကဗျာ့မဥ္ဇရီကျမ်း၊ ပညာ့အလင်းစာအုပ်တိုက်၊ ရန်ကုန်မြို့။ ၁၃၂၃–ခုနှစ်တွင် စတုတ္ထအကြိမ်–စသည် လေးကြိမ်ဖော်ပြပြီးဖြစ်သည်။

*၂ မောင်ရွှေ၏ လယ်တီမဟာထေရုပ္ပတ္တိကထာကို ၁၂၈၅–ခုနှစ်အတွင်း ရန်ကုန်မြို့ ပညာအလင်းသတင်းစာတိုက်က နှစ်ကြိမ်ရိုက်နှိပ်ပါသည်။

*၃ လယ်တီဆရာတော်ကြီး ရခိုင်ပြည်နယ် စစ်တွေမြို့သို့ကြွချီပုံကို ဤစာအုပ်၌ခမ်းနားစွာရေးထားသော်လည်း စစ်တွေမြို့ သို့ နှစ်ကြိမ်တိုင်တိုင် (၁၉၇၆–ခုနှစ်၊ ၂၀၀၆–ခုနှစ်) သွားရောက်မေးမြန်းစုံစမ်းသော်လည်း အကျအနပြောပြနိုင်သူဟူ၍ မတွေ့ခဲ့ရပေ။

## ၃။ ဘုရားဖြူအရှင်ရာဇိန္ဒ၏ လယ်တီထေရုပ္ပတ္တိအကျဉ်း

လယ်တီဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၇၈ (၁၉၁၆/၁၇) ခုနှစ်တွင် မန္တလေးမြို့ မစိုးရိမ်ကျောင်းတိုက်(ဟောင်း)၌ ခေတ္တတည်းခိုသီတင်းသုံးနေတော်မူပြီး မစိုးရိမ်စာချအဖွဲ့နှင့်အတူ သဒ္ဒတ္ထရတနာဝလိအမည်ရှိသော မဟာပါဠိအဘိဓာန်ကျမ်းကြီးကိုပြုစုတော်မူရာ၊ အဘိဓာန်ကျမ်းပြုအဖွဲ့ဝင်တစ်ပါးဖြစ်သော အရှင်ရာဇိန္ဒ*၁ သည် လယ်တီဆရာတော်ကြီးနှင့် နီးနီးစပ်စပ်နေထိုင်သီတင်းသုံးဖူးသည့်အလျောက် လယ်တီဆရာတော်ကြီး၏အကြောင်းကို သိရှိတော်မူခဲ့လေသည်။ သိရှိသည့်အတိုင်း သက္ကရာဇ် ၁၂၈၈ (အေဒီ ၁၉၂၆) ခုနှစ်တွင်ပြုစုသော သာသနဗဟုသုတပ္ပကာသနီအမည်ရှိသောကျမ်းကြီး၌ 'အင်္ဂလိပ်မင်းလက်ထက် သာသနာတော်၌ ထင်ရှားသောမထေရ်ကြီး' ဟူသောခေါင်းစဉ်းဖြင့် မန်လည်ဆရာတော်ကြီးနှင့် လယ်တီဆရာတော်ကြီးနှစ်ပါးတို့အကြောင်းကိုဖော်ပြထားသည်။ ထိုတွင် လယ်တီဆရာတော်ကြီးအကြောင်းကို သုံးမျက်နှာခန့် ထည့်သွင်းရေးသားခဲ့လေသည်။*၂

## ၄။ စတုတ္ထမြစ်ကွေ့ဆရာတော်၏ လယ်တီမဟာထေရသံခေပဥပ္ပတ္တိမဉ္ဇရီ

သက္ကရာဇ် ၁၂၉၂–ခုနှစ် (၁၉၃၁–ခုနှစ်)တွင် လယ်တီဆရာတော်ကြီး၏ ပရမတ္ထဒီပနီ (သင်္ဂြိုဟ်မဟာဋီကာသစ်ပါဌ်) ကျမ်းကို ဒေါ်အေးမေ၏ကဝိမျက်မှန်ပုံနှိပ်တိုက်မှ တတိယအကြိမ် ရိုက်နှိပ်ခဲ့ပါသည်။*၃ ထို ၁၂၉၂–ခုနှစ်ရိုက်သော ပရမတ္ထဒီပနီမူကို လန်ဒန်မူ*၄ ဟုခေါ်ဆိုကြောင်း ကျမ်းဦးနိဒါန်း၌ဖော်ပြထားသည်။ ထိုမူတွင် ဟသ်ာတမြို့ မြစ်ကွေ့တိုက်အရှေ့ကျောင်းနေ စတုတ္ထမြစ်ကွေ့ဆရာတော်ဦးပညာဝံသ*၅ ရေးသားသော 'လယ်တီမဟာထေရသံခေပဥပ္ပတ္တိမဉ္ဇရီ' အမည်ရှိ လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ္တိအကျဉ်းကိုလည်း ထည့်သွင်းဖော်ပြထားသည်။*၆

---

*၁ ထိုအရှင်ရာဇိန္ဒသည် နောင်အခါ ရန်ကုန်မြို့ အရှေ့ပိုင်း ဘုရားဖြူကျောင်းတိုက်ဆရာတော်ဖြစ်တော်မူပါသည်။

*၂ ဘုရားဖြူဆရာတော်၏ သာသနဗဟုသုတပ္ပကာသနီ။ ဒီးဒုတ်သတင်းစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၂၉၀–ပြည့်နှစ်။ (စာမျက်နှာ ၁၉၂–၁၉၄)။

*၃ ကဝိမျက်မှန်ပုံနှိပ်တိုက်သည် ပရမတ္ထဒီပနီကို ၁၂၆၂–ခုနှစ်တွင် တစ်ကြိမ်၊ ၁၂၆၉–ခုနှစ်တွင် တစ်ကြိမ်၊ ၁၂၉၂–ခုနှစ်တွင် တစ်ကြိမ် ရိုက်နှိပ်ကြောင်းတွေ့ရ၍ ၁၂၉၂–ခုရိုက်ကို တတိယအကြိမ်ရိုက်ဟု ရေးခြင်းဖြစ်သည်။

*၄ လန်ဒန်မူ–ဆိုသည်မှာ အင်္ဂလန်နိုင်ငံ၊ လန်ဒန်မြို့၊ ပါဠိကျမ်းစာအသင်းကြီးသို့ ပရမတ္ထဒီပနီကျမ်းကို ပေးပို့သောအခါ ဆရာတော်ကြီးက လန်ဒန်ပါဠိဒေဝီ (Mrs. Rhys Davids) အစရှိသော ပါဠိပညာရှင်များ အခက်အခဲမတွေ့ရန် အနက်မထင်နိုင်ဟုအထင်ရှိသော အချို့ပုဒ်ပါဌ်တို့ကို ပြင်ဆင်ပြီးမှပေးပို့စေခဲ့သည်။ ၁၂၉၂–ခုရိုက် ပရမတ္ထဒီပနီကျမ်းသည် လန်ဒန်သို့ပေးပို့စဉ်က ပြင်ဆင်ထားသောမူကို ရိုက်နှိပ်ထားသည်ဖြစ်၍ ထိုမူကို(လန်ဒန်မူ)ဟုခေါ်ခြင်းဖြစ်သည်။

*၅ စတုတ္ထမြစ်ကွေ့ဆရာတော်သည် ဒုတိယကမ္ဘာစစ်ကြီးမတိုင်မီက ဇမ္ဗူမိတ်ဆွေ၊ သုဓမ္မဝတီ၊ ပြည်ကြီးမဏ္ဍိုင်–စသော ပိဋကတ်တိုက်တို့မှရိုက်နှိပ်သော ဂန္ထန္တရကျမ်းတို့တွင် နိဒါန်းရေးပေးခြင်း၊ ကျမ်းပြုပုဂ္ဂိုလ်တို့၏ ထေရုပ္ပတ္တိကို ရေးပေးခြင်း ပြုခဲ့၏။ စတုတ္ထမြစ်ကွေ့ဆရာတော်၏နိဒါန်းများသည် မော်ကွန်းထားထိုက်သော စံပြနိဒါန်းကြီးများဖြစ်ပြီးလျှင် ထေရုပ္ပတ္တိများသည်လည်း ဘက်စုံထောင့်စုံမှ သုတေသနပြုရေးထား၍ သမိုင်းတန်ဖိုးကြီးမားလှသည်။ ပါရဂူ၏ မြစ်ကွေ့ဆရာတော်၏စာပေသိုက်–၁။ (ဆောင်းပါး)။ ယဉ်ကျေးမှုမဂ္ဂဇင်း။ ၂၀၀၃–ခုနှစ်။ (စာမျက်နှာ ၂၅–၃၁)။

*၆ လယ်တီဆရာတော်၏ ပရမတ္ထဒီပနီ။ ကဝိမျက်မှန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၂၉–ခုနှစ်။ (စာမျက်နှာ ၄–တ)။

၅။ မြန်မာစာညွန့်ပေါင်းကျမ်းပါ လယ်တီထေရုပ္ပတ္တိအကျဉ်း

အေဒီ ၁၉၃၁–ခုနှစ်တွင် လယ်တီဆရာတော်ကြီးထေရုပ္ပတ္တိအကျဉ်းကလေးတစ်ပုဒ်ပါဝင်သော မြန်မာစာညွန့်ပေါင်းကျမ်း စတုတ္ထတွဲ ပေါ်ထွက်လာ၏။ ထိုမြန်မာစာညွန့်ပေါင်းကျမ်းစတုတ္ထတွဲတွင် လယ်တီဆရာတော်ကြီးရေးသားသော 'မိုက်မလင်းနိုင်လို့' အစချီသံဝေဂဘွဲ့လေးချိုးကြီး၊ ပဋ္ဌာနသမုပ္ပါဒ်လင်္ကာ၊ ခန္ဓာ အာယတန ဓာတ် သစ္စာလင်္ကာနှင့် နွားမေတ္တာစာတို့ကိုဖော်ပြထားသည်။ ထိုကျမ်း၏နောက်ဆက်တွဲ၌ လယ်တီဆရာတော်ကြီးအကြောင်းကို စာမျက်နှာဝက်ခန့်ဖော်ပြထားသည်။*၁ မြန်မာစာညွန့်ပေါင်းကျမ်းကို တာဝန်ခံအုပ်ချုပ်သူမှာ ကိုးခန်းပျို့ဋီကာကျမ်းပြုအရေးပိုင်မင်းဦးကျော်ထွန်း (K.S.M.) ဖြစ်ကြောင်းကို သိပ္ပံမောင်ဝရေးသော ဦးကျော်ဒွန်းအတ္ထုပ္ပတ္တိ၌ဖော်ပြထားသည်။*၂ သို့ဖြစ်၍ ထိုကျမ်းပါ လယ်တီထေရုပ္ပတ္တိအကျဉ်းကို ဦးကျော်ဒွန်းအစီအစဉ်ဖြင့်ရေးသည်ဟု မှတ်ယူနိုင်သည်။ ထိုအရေးပိုင်မင်းဦးကျော်ဒွန်းသည် လယ်တီဆရာတော်ကြီး၏တပည့်ရင်းဖြစ်သော်လည်း အစိုးရအစီအစဉ်ဖြင့်ထုတ်ဝေရသောဤကျမ်းတွင် လယ်တီဆရာတော်၏အကြောင်းကို အကြောင်းအရာငုံမိရုံခပ်ကျဉ်းကျဉ်းသာရေး၍ ထည့်သွင်းခဲ့ခြင်းဖြစ်ဟန်တူလေသည်။

၆။ ဦးဖေမောင်တင်၏ လယ်တီထေရုပ္ပတ္တိအကျဉ်း

အေဒီ ၁၉၃၈–ခုနှစ်တွင် မြန်မာစာပေလောကအတွက် တန်ဖိုးရှိလှသော 'မြန်မာစာပေသမိုင်း' အမည်ရှိ ဂန္ထဝင်ကျမ်းပေါ်ထွက်ခဲ့ပေသည်။ ကျမ်းပြုသူမှာ ရန်ကုန်တက္ကသိုလ်၌ မြန်မာလူမျိုးတို့တွင် ပထမဦးဆုံးကောလိပ်ကျောင်းအုပ်ကြီးဖြစ်သူဆရာကြီးဦးဖေမောင်တင်ဖြစ်လေသည်။*၃ ဆရာကြီးဦးဖေမောင်တင်သည် မြန်မာစာပေသမိုင်းကျမ်း၊ ကုန်းဘောင်ခေတ် ဒုတိယပိုင်းတွင် လယ်တီဆရာတော်ကြီးအကြောင်းကို (၁၁)မျက်နှာခန့်ရေးသားထားပါသည်။ ထိုကျမ်း၌ လယ်တီဆရာတော်ကြီးအကြောင်းကိုဖော်ပြရာတွင် ဆရာတော်ကြီး၏ဘဝဖြစ်စဉ်ထက် ဆရာတော်၏စကားပြေအရေးအသား၊ ကဗျာလင်္ကာ ဖွဲ့ဆိုပုံတို့ကို ဝေဖန်သုံးသပ်ထားကြောင်းတွေ့ရသည်။ ဆရာတော်ကြီး၏ စာပေအရေးအသား အဖွဲ့အနွဲ့ကို မြန်မာစာပေလောက၌ ရှေးဦးပထမသုံးသပ်ပြခြင်းဖြစ်သည်ဟုဆိုနိုင်သည်။ ဆရာတော်ကြီးရေးဖွဲ့တော်မူခဲ့သောစာတို့သည် ကောင်းမွန်ကြောင်းထင်ရှားပြီးဖြစ်သော်လည်း ဘယ်သို့ဘယ်ပုံ ကောင်းမွန်ကျနပုံကိုဝေဖန်ပြနိုင်ဖို့မှာ ဆရာကြီးဦးဖေမောင်တင်ကဲ့သို့ ပါဠိစာပေ၌နှံ့စပ်ကျွမ်းကျင်ပြီး ရှေးဟောင်းမြန်မာဂန္ထဝင်၌လည်း အသိအမြင်ကြွယ်ဝသောပညာရှင်ပုဂ္ဂိုလ်မျိုးမှသာ စွမ်းဆောင်နိုင်မည်ဖြစ်သည်။ ဆရာကြီးဦးဖေမောင်တင်၏ဝေဖန်မှုကြောင့် လယ်တီဆရာတော်ကြီး၏အရေးအသားသည် ခေတ်လည်းမီ ဂန္ထဝင်မြောက်လှသည်ဖြစ်ကြောင်းသိရှိကြရကာ၊ ရန်ကုန်တက္ကသိုလ်တွင် လယ်တီဆရာတော်ကြီး၏ ဥတ္တမပုရိသ

*၁ ဦးခင်အေး(တည်း)၏ မြန်မာစာညွန့်ပေါင်းကျမ်း။ စတုတ္ထတွဲ၊ ရန်ကုန်မြို့။ ၁၉၉၃–ခုနှစ်။ (စာမျက်နှာ–၃၃၀)။

*၂ သိပ္ပံမောင်ဝ၏ ဦးကျော်ဒွန်း။ စာပေယဉ်ကျေးမှု။ ၂၀၀၆–ခုနှစ်။ (စာမျက်နှာ–၃၂၂)။

*၃ ဆရာကြီးဦးဖေမောင်တင်သည် ရန်ကုန်တက္ကသိုလ်ကျောင်းအုပ်ကြီးအဖြစ် အေဒီ ၁၉၃၆–ခုနှစ်မှ အေဒီ ၁၉၄၆–ခုနှစ်အထိ ထမ်းရွက်ခဲ့သည်။

ဒီပနီ အစရှိသောကျမ်းစာတို့ကို ခေတ်ပညာတတ်လူငယ်များသင်ကြားရန်ဟု ပြဋ္ဌာန်းခြင်းခံခဲ့လေသည်။ လယ်တီဆရာတော်ကြီး၏ ကျမ်းစာများကိုသင်ယူမှတ်သားရသောကြောင့် တက္ကသိုလ်ကျောင်းသူကျောင်းသားများ ဗုဒ္ဓသာသနာတော်၌ ကြည်ညိုသဒ္ဓါစိတ်များ ပို၍ဖြစ်ခဲ့ကြပါသည်။*၁

၇။ ဆရာကြီးလယ်တီဦးလှတင်(ဦးဝဏ္ဏိတ)၏ လယ်တီမဟာထေရုပ္ပတ္တိကျမ်း

မြန်မာနိုင်ငံလွတ်လပ်ရေးရပြီးနောက် အေဒီ ၁၉၅၁–ခုနှစ်တွင် လယ်တီဆရာတော်ကြီး၏ ထေရုပ္ပတ္တိ ကြီးငယ်အသွယ်သွယ်တို့ ပေါ်ထွက်လာပြန်သည်။ ထိုသို့ပေါ်ထွက်ခဲ့သော လယ်တီထေရုပ္ပတ္တိကျမ်းတို့တွင် လယ်တီဦးဝဏ္ဏိတ၏ လယ်တီမဟာထေရုပ္ပတ္တိကထာကျမ်းသည်လည်း အပါအဝင်ဖြစ်လေသည်။ ဆရာကြီးဦးလှတင်သည် ထိုကျမ်းကို ရဟန်းဘဝကပင် ပဲရှော့ဦးဆန်နီ တောင်းပန်၍ ရေးသားခဲ့ခြင်းဖြစ်သည်။ ထိုစာအုပ်ရှေ့ပိုင်းတွင်ပါသော အချိန်နိဒါန်းအရ 'သက္ကရာဇ် ၁၂၈၈–ခုနှစ်၊ တပို့တွဲလ၊ မန္တလေးမြို့၊ လယ်တီစံကျောင်းတွင်သီတင်းသုံးလျက် နိုင်ငံခြား ဗုဒ္ဓသာသနာပြုအသင်းဒုတိယဥက္ကဋ္ဌအဖြစ်ဆောင်ရွက်နေစဉ်အခါက ရေးသားခဲ့သည်' ဟု ဖော်ပြထားသည်။ သက္ကရာဇ် ၁၂၈၈–ခုနှစ် (၁၉၂၇–ခုနှစ်)တွင်ရေးသားခဲ့သော ထိုစာအုပ်သည် ၁၉၅၆–ခုနှစ်သို့ရောက်မှ ပုံနှိပ်မှုအဖြစ်ရောက်ရှိခဲ့လေသည်။*၂ ဆရာကြီးဦးလှတင်၏ လယ်တီမဟာထေရုပ္ပတ္တိသည် အခန်း(၁၀)ခန်းပါရှိပြီး ခေတ်အလိုက်ရေးရလျှင် အပြည့်စုံဆုံးထေရုပ္ပတ္တိတစ်စောင်ဖြစ်ပါသည်။ ယခုတိုင် လယ်တီဆရာတော်ဘုရားအကြောင်းကိုရေးသားကြရာ၌ ဤစာအုပ်ကို လက်ကိုင်ထား၍မှီငြမ်းရေးသားနေရဆဲဖြစ်ပါသည်။

၈။ ဆရာစိုး၏ လယ်တီထေရုပ္ပတ္တိအကျဉ်းချုပ်

မုံရွာမြို့၊ ပညာ့ဗိမာန်ကျောင်း ဥပစာ(က)တန်း ပါဠိမြန်မာပြဆရာဦးစိုးသည် သက္ကရာဇ် ၁၃၁၉ (အေဒီ–၁၉၅၇)ခုနှစ်တွင်ပြုစုသော လယ်တီဆရာတော်ဘုရားကြီးထေရုပ္ပတ္တိအကျဉ်းချုပ်ကို မုံရွာမြို့၊ ကေသရဝတီတံဆိပ်ထုလုပ်ငန်းကရိုက်နှိပ်ထုတ်ဝေခဲ့ပါသည်။ ထိုစာအုပ်တွင် စာမျက်နှာ (၂၂)မျက်နှာပါရှိသည်။ ထိုစာအုပ်ကို ဆဋ္ဌလယ်တီဆရာတော်ဦးတေဇိန္ဒ(ဘိုးဘိုးကြီး)*၃ တိုက်တွန်းချက်အရ ရေးသားခြင်းဖြစ်သည်။ ဘိုးဘိုးကြီးဦးတေဇိန္ဒသည် စစ်ဘေးစစ်ဒဏ်ကြောင့် ပြိုကျပျက်စီးခဲ့ရသော လယ်တီတိုက်အတွင်းရှိ အဆောက်အအုံများကို အသစ်ပြန်လည်တည်ဆောက်မွမ်းမံခြင်း၊ လယ်တီကျောက်စာရုံတော်ကြီးကိုလည်း အသစ်တစ်ဖန်ပြုပြင်တည်ဆောက်ခြင်းစသည်

---

*၁ သင့်ဘဝဦးရဲလွင်၏ လယ်တီဆရာတော်၏ဒီပနီကျမ်းများ။ (အသံလွှင့်ဟောပြောချက်။) ထိပေဒ်သျှင်မှ အာဇာနည်များ။ (စာမျက်နှာ–၈၁)။

*၂ ၁၉၅၆–ခုနှစ်။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့ရိုက်နှိပ်သောမူဖြစ်သည်။

*၃ ဆရာတော်ဦးတေဇိန္ဒကို ၁၃၁၅–ခုနှစ်၊ တပေါင်းလပြည့်ကျော် ၁၁–ရက်နေ့တွင် မဟာလယ်တီတိုက်အတွင်း ရတနာဂိရိ အုတ်ကျောင်းဘုန်းကြီးအဖြစ်မှ ဆဋ္ဌလယ်တီဆရာတော်အဖြစ် တင်မြှောက်ခဲ့ကြသည်။ ဦးတေဇိန္ဒလက်ထက်တွင် စစ်ဘေးစစ်ဒဏ်သင့်၍ပျက်စီးခဲ့သော လယ်တီတိုက်ကြီးကို စတင်ပြုပြင်ခဲ့သည်။ ယင်းဆရာတော်လက်ထက်၌ လယ်တီတိုက်ကြီးပွား၍ ဘွဲ့ရပုဂ္ဂိုလ်၊ စာအောင်ပုဂ္ဂိုလ် များစွာပေါ်ထွက်ခဲ့သည်။ ၁၃၃၁–ခုနှစ်တွင်ပျံလွန်တော်မူပါသည်။

လယ်တီတိုက်တာကြီးပွားရေးကို ဆောင်ရွက်တော်မူလျက်ရှိရာ အနယ်နယ်အရပ်ရပ်မှ ဘုရားဖူးလာကြသူများကို တိုက်တည်လယ်တီဆရာတော်ဘုရားကြီးအကြောင်း ကြည်ညိုနိုင်ကြရန်နှင့် ဝေငှရန်အလို့ငှာ ထိုစာအုပ်ငယ်ကို ဆရာစိုးအားရေးသားစေခြင်းဖြစ်သည်။

**၉။ မဟာလယ်တီဗိမာန်တည်ဆောက်ရေးအဖွဲ့၏ လယ်တီထေရုပ္ပတ္တိချုပ်**

ဘိုးဘိုးကြီးဦးတေဇိန္ဒလက်ထက်မှာပင် လယ်တီဆရာတော်ကြီး၏ဖွားရာချက်ကြွေ စိုင်ပြင်မြေ၌ လယ်တီရွှေချက်သိုဗိမာန်တည်ဆောက်ရေးကိစ္စများဆောင်ရွက်ရန် အစပျိုးလာသည်။ ၁၃၂၀– ပြည့်နှစ် နတ်တော်လဆန်း(၁၃)ရက်၊ အင်္ဂါနေ့(၂၃–၁၂–၅၈) သည် လယ်တီဆရာတော်ကြီး၏ မွေးနေ့၊ မွေးရက်၊ မွေးလတို့တိုက်ဆိုင်နေပါသဖြင့် ထိုနေ့တွင် စိုင်ပြင်ရွာ ဝိဇာတကုန်းမြေ၌ မဟာလယ်တီဗိမာန်ကြီးအုတ်မြစ်ချပွဲနှင့် မွေးနေ့ပွဲတော်ကြီးကို ကြီးကျယ်ခမ်းနားစွာကျင်းပရန် ကော်မတီတစ်ရပ်ဖွဲ့စည်းခဲ့ကြသည်။ မဟာလယ်တီဗိမာန်တည်ဆောက်ရေးအတွက် ရန်ပုံငွေရရှိစေရန် ကျင်းပရေးကော်မတီမှ 'လယ်တီထေရုပ္ပတ္တိချုပ်'ဟူသောအမည်ဖြင့် လယ်တီဆရာတော်ကြီး၏ ထေရုပ္ပတ္တိအကျဉ်းစာအုပ်ကို ပြုစုရေးသားပြီး ရန်ကုန်မြို့ ဗမာ့ခေတ်သတင်းစာတိုက်က အုပ်ရေ (၅၀၀၀)ရိုက်နှိပ်လှူဒါန်းခဲ့သည်။ ထိုစာအုပ်တွင် စာမျက်နှာ (၃၉)မျက်နှာပါရှိပြီး တစ်အုပ်ကို တန်ဖိုးတစ်ကျပ်ထား၍ဖြန့်ဝေခဲ့သည်။

**၁၀။ အောင်သိဒ္ဓိရွှေကြီး၏ လယ်တီဆရာတော်ဘုရားကြီး၏ ဝါတော်စဉ်ထေရုပ္ပတ္တိအကျဉ်းချုပ်**

ဆဋ္ဌလယ်တီဆရာတော်ဦးတေဇိန္ဒ၊ စိုင်ပြင်ရွာဇာတိ ရွှေတမာဆရာတော်ဦးနိသဘ၊ ထောင်ကျောင်းပြန် ဦးဝိစိတ္တသာရ၊ လယ်တီဓမ္မကထိကဦးတိုက်ဝမ်းတို့၏တိုက်တွန်းချက်ဖြင့် အောင်သိဒ္ဓိရွှေကြီး ကလောင်အမည်ခံပုဂ္ဂိုလ်က 'ပထမလယ်တီဆရာတော်ဘုရားကြီး၏ဝါတော်စဉ်အတ္တုပ္ပတ္တိအကျဉ်းချုပ်'အမည်ရှိ စာမျက်နှာ (၄၂)မျက်နှာပါစာအုပ်ငယ်တစ်အုပ်ကို ရေးသားထုတ်ဝေခဲ့ပါသည်။ ထိုစာအုပ်ကို လယ်တီဥပုသ်သည်များနှင့် သီလရှင်များ၊ တရားနာပရိသတ်များက စုပေါင်းကုသိုလ်ယူကာ စာအုပ်ထုတ်ဝေလှူဒါန်းခြင်းဖြစ်ပါသည်။

**၁၁။ မောင်ဒီပ၏ လယ်တီထေရုပ္ပတ္တိ(ဆောင်းပါး)**

အေဒီ ၁၉၅၇–ခုနှစ်၊ ဇူလိုင်လထုတ် စာပေဗိမာန်မဂ္ဂဇင်း၊ (အတွဲ–၆၊ အမှတ်–၂) (စာမျက်နှာ–၆၅)တွင် မောင်ဒီပရေးသားသော လယ်တီဆရာတော်ဟူသောဆောင်းပါးကို ဖော်ပြထားပါသည်။ ထိုဆောင်းပါးသည် မဂ္ဂဇင်းဆောင်းပါးပင်ဖြစ်သော်ငြားလည်း အချက်အလက်စေ့စုံလှသည်။ ထိုဆောင်းပါးအစ၌ လယ်တီဆရာတော်ကြီး ထားဝယ်မြို့သို့ကြွတော်မူပုံကို စ၍ရေးထားသည်။*[၁] လယ်တီဆရာတော်ကြီး မန္တလေးမြို့စံကျောင်းတိုက်၌သီတင်းသုံးနေစဉ်အခါ ဂိလာနပစ္စယကခေါ် သူနာကိုစောင့်ရှောက်ပြုစုရာတွင် မိမိကိုယ်တိုင်မပြုစုနိုင်သောအခါ ထိုသူနာရှိရာ

*[၁] သုဓမ္မဝတီဦးပန်းမောင်၏ ကျွန်ုပ်သိသော လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး(ဆောင်းပါး)၌ 'မြိတ်မြို့သို့ကြွသည်'ဟု ဖော်ပြထားသည်။ မြန်မာပြန်၏ လယ်တီပဏ္ဍိတ။ (စာ–၁၂၃)။ ရဝေစိုးမင်း၏ တိမ်မြုပ်နေသောအဖိုးတန်စာပေများ (ဆောင်းပါး)၌ 'မြိတ်ထားဝယ်' နှစ်မြို့သို့ကြွကြောင်းဖော်ပြထား၏။ မြန်စာပြန်၏ လယ်တီပဏ္ဍိတ။ (စာမျက်နှာ–၁၅၄)။

ကျောင်းသို့ စားစရာများပို့ပေးပုံကိုလည်းဖော်ပြထားသည်။*[၁] ဤအချက်တို့သည် အခြားစာအုပ်စာတမ်းများ၌ တွေ့ရခဲသောအချက်များဖြစ်သည်။ မောင်ဒီပ၏ လယ်တီဆရာတော်ဆောင်းပါးကို စာပေဗိမာန်မဂ္ဂဇင်း၌ဖော်ပြပြီးနောက် စာဖတ်ပရိသတ်၏ နှစ်သက်သောဆောင်းပါးတို့တွင် တစ်ပုဒ်အပါအဝင်ဖြစ်သည့်အတွက် ၁၉၆၁–ခုနှစ် စာပေဗိမာန်မှထုတ်ဝေသော စာပဒေသာ စာအုပ်တွင် ဒုတိယအကြိမ်ထည့်သွင်းထားသည်။*[၂]

## ၁၂။ လှသမိန်၏ လယ်တီထေရုပ္ပတ္တိအကျဉ်း

အေဒီ ၁၉၆၁–ခုနှစ်တွင် ဆရာလှသမိန်၏မြန်မာနိုင်ငံဂန္ထဝင်ပုဂ္ဂိုလ်ကျော်များအတ္ထုပ္ပတ်ကျမ်းပေါ်ထွက်ခဲ့ပြီး၊ ထိုကျမ်းတွင် ကျမ်းပြုစာဆို(၂၈၀)တို့၏အတ္ထုပ္ပတ္တိကိုဖော်ပြထားပါသည်။ လယ်တီဆရာတော်ကြီး၏အတ္ထုပ္ပတ္တိတို့ကိုလည်း (၅)မျက်နှာခန့် ထည့်သွင်းရေးသားထားလေသည်။*[၃]

## ၁၃။ မောင်သုတ၏ လယ်တီထေရုပ္ပတ္တိအကျဉ်း

လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ္တိအကျဉ်းကို မောင်သုတ(ခေါ်) ဗိုလ်မှူးဘသောင်း(ငြိမ်း)၏ စာဆိုတော်များအတ္ထုပ္ပတ္တိကျမ်းတွင်လည်းတွေ့ရသည်။*[၄] ဤကျမ်းမှာ အေဒီ ၁၉၅၇–ခုနှစ် ဖွန်လတွင် ဆရာဦးဘသောင်း မဟာဝိဇ္ဇာစာမေးပွဲအတွက် တင်သွင်းခဲ့သော သုတေသနပြုချက်စာတမ်းဖြစ်သည်။ အေဒီ ၁၉၆၂–ခုနှစ်တွင် ရန်ကုန်မြို့ ရှမပုံနှိပ်တိုက်မှပထမအကြိမ်ပုံနှိပ်ခဲ့သည်။ ဤကျမ်းကို စာပေဗိမာန်က အေဒီ ၁၉၆၂–ခုနှစ်အတွက် စာပဒေသာပထမဆုချီးမြှင့်ခဲ့ပါသည်။ ဤကျမ်းတွင် ကျမ်းပြုစာဆိုပေါင်း(၁၆၅)ဦးတို့၏ အတ္ထုပ္ပတ္တိတို့ကိုဖော်ပြထားပြီး အမှတ်စဉ်(၁၃၉)မှာ လယ်တီဆရာတော်ကြီးအကြောင်းဖြစ်သည်။ လယ်တီဆရာတော်ကြီးအကြောင်းကို နှစ်မျက်နှာခန့် ဖော်ပြထားသည်။

## ၁၄။ အောင်သူ၏ လယ်တီဆရာတော်

လယ်တီဆရာတော်၏ထေရုပ္ပတ္တိစာအုပ်များတွင် စာပေဗိမာန်မှ ပြည်သူ့လက်စွဲစာစဉ်အဖြစ် ထုတ်ဝေခဲ့သော အောင်သူ၏လယ်တီဆရာတော်သည်လည်း တစ်အုပ်အပါအဝင်ဖြစ်သည်။*[၅] ထိုစာအုပ်တွင် လယ်တီဆရာတော်၏ဘဝဖြစ်စဉ်ကို ဝါကျတိုတိုကလေးများဖြင့်ရေးထားသဖြင့် တော်ရုံစာဖတ်တတ်သူတို့အဖို့ အခက်အခဲမရှိ ဖတ်ရှုနားလည်လောက်သည်။ ဖတ်သူ၏စိတ်၌ ထင်းခနဲ စိုက်ခနဲ သရုပ်ပေါ်သွားစေရန် ပန်းချီဦးလှစိန်က သရုပ်ဖော်ပုံကလေးများစွာ ရေးဆွဲဖော်ပြထားသည်။ ဤစာအုပ်၌ဆိုရန်တစ်ချက်ရှိသည်။ လယ်တီဆရာတော်ကြီးအား အဂ္ဂမဟာပဏ္ဍိတ၊

---

*၁ မောင်ဒီပ၏ လယ်တီဆရာတော်(ဆောင်းပါး)။ စာပေဗိမာန်မဂ္ဂဇင်း။ (စာမျက်နှာ–၆၆)။

*၂ စာပေဗိမာန်စာတည်းအဖွဲ့၏ စာပဒေသာ။ ၁၉၆၂–ခုနှစ်။ (စာမျက်နှာ ၅၅–၆၇)။

*၃ လှသမိန်၏ ဂန္ထဝင်ပုဂ္ဂိုလ်ကျော်များအတ္ထုပ္ပတ္တိပေါင်းချုပ်။ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၆၁–ခုနှစ်။ (စာမျက်နှာ ၁၂၃–၁၂၇)။

*၄ မောင်သုတ၏ စာဆိုတော်များအတ္ထုပ္ပတ္တိ။ ၂၀၀၂–ခုနှစ်။ (စာမျက်နှာ–၂၈၅၊ ၂၈၆)။

*၅ အောင်သူ၏ လယ်တီဆရာတော်။ ခုနှစ်မပါ။

ဒီလစ်–စသောဘွဲ့တံဆိပ်တို့ကို ပြည်သူပိုင်အစိုးရက ဆက်ကပ်ခဲ့သော်လည်း ထိုဘွဲ့တံဆိပ် ဆက်ကပ်ပွဲသို့ ကိုယ်တော်တိုင်ကြွရောက်ခြင်းမပြုခဲ့သည်ကို သိကြပြီးဖြစ်သော်လည်း ထိုစာအုပ် (စာမျက်နှာ–၂၇)တွင် 'ဆရာတော်ကြီးအား ၁၂၇၃–ခုနှစ်တွင် အင်္ဂလိပ်အစိုးရက အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်ကို ဆက်ကပ်သည်။ (၁၀)နှစ်အကြာတွင် ရန်ကုန်တက္ကသိုလ်က ကျမ်းတတ်ပါရဂူဘွဲ့ထူးကို ဆက်ကပ်ပြန်သည်။ အင်္ဂလန်နှင့်ဥရောပတိုက်နိုင်ငံကြီးများကပင် ဆရာတော်၏ ဉာဏ်ထက်မြက်သည်ကို ချီးကျူးကြကုန်သည်'ဟုရေးသားဖော်ပြပြီး၊ ပန်းချီဆရာက 'ဆရာတော်ကြီးက ပလ္လင်ပေါ်၌ ထိုင်နေတော်မူဟန်၊ တိုက်ပုံဝတ်ခေါင်းပေါင်းပေါင်းပြီး ယောဘတ်စလွယ်သိုင်းထားသော မြန်မာလူမျိုးတစ်ဦးက ပလ္လင်အောက်မှလက်နှစ်ဖက်ဖြင့် ရိုသေသောဟန်အမူအရာဖြင့် ဘွဲ့လက်မှတ် ဆက်ကပ်နေပုံ'ကို သရုပ်ဖော်ရေးဆွဲထားလေသည်။ ထိုစဉ်က ဘွဲ့လက်မှတ်ဆက်ကပ်သူတို့သည် အင်္ဂလိပ်အစိုးရဟုဆိုထားသဖြင့် ဆက်ကပ်သူပုံကိုရေးဆွဲလျှင် အင်္ဂလိပ်လူမျိုးပုံသာဖြစ်သင့်သည်။ စင်စစ်ဆရာတော်ကြီးသည် ထိုဘွဲ့တံဆိပ်နှစ်ခုစလုံးကို ကိုယ်တိုင်ကြွ၍လှူဒါန်းခံယူခြင်းမရှိသည့်အတွက် ပလ္လင်ထက်က ဘွဲ့လက်ခံယူသူ၏ပုံတွင်လည်း ဆရာတော်ပုံမဖြစ်သင့်။ ထို့ပြင် အင်္ဂလိပ်လက်ထက်အခါက ဤကဲ့သို့ဘွဲ့တို့ကိုပေးအပ်သည့်အခါ ဘွဲ့ခံယူသူနှင့်ဘွဲ့ပေးသူသည် ကြမ်းတစ်ပြေးတည်း မတ်ရပ်ပေး၍ မတ်ရပ်ပင်ခံယူရသောအလေ့ရှိပါသည်။*၁

**၁၅။ ဒဂုန်ဦးထွန်းမြင့်၏ လယ်တီထေရုပ္ပတ္တိအကျဉ်း**

စာပေဗိမာန်သုခမိန်အဖွဲ့မှစီစဉ်သော မြန်မာ့စွယ်စုံကျမ်း၊ အတွဲ(၁၂)၌ လယ်တီဆရာတော်ကြီးအကြောင်းကို လေးမျက်နှာခန့်ဖော်ပြထားသည်။*၂ ထိုအကြောင်းကို ရေးသားရန်တာဝန်ကျသူမှာ ဆရာကြီးဒဂုန်ဦးထွန်းမြင့်ဖြစ်သည်။ ဒဂုန်ဦးထွန်းမြင့်သည် လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ တပည့်ရင်းတစ်ဦးဖြစ်ပြီး လယ်တီအသိုင်းအဝန်းနှင့် ရင်းနှီးခဲ့သည့်အလျောက် လယ်တီဆရာတော်ကြီး၏အကြောင်းကို အတော်အတန်သိရှိသူတစ်ဦးဖြစ်သည်။ ဤနေရာ၌ ဆရာဦးထွန်းမြင့်သည် လယ်တီဆရာတော်ကြီးအကြောင်းကို ခပ်ကျဉ်းကျဉ်းသာရေးခဲ့ရ၏။ ရေးသားပုံညက်ညော၍ အချက်အလက်ခိုင်လုံ၊ စီစဉ်ထားသိုပုံနေရာကျသဖြင့် ဆရာဒဂုန်ဦးထွန်းမြင့်၏ လယ်တီဆရာတော်အကြောင်းသည် ပြည့်စုံသောလယ်တီထေရုပ္ပတ္တိစာတစ်ပုဒ်ဖြစ်ပါသည်။

**၁၆။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထ ဝင်ကျော်များသမိုင်း**

လယ်တီဦးလှပိုင် (၁၆)နှစ်တိုင်တိုင်ပြုစုခဲ့သော လယ်တီနိကာယသာသနာဝင်ဟုခေါ် လယ်တီဂန္ထ ဝင်ပုဂ္ဂိုလ်ကျော်များသမိုင်းကျမ်းကြီးသည် ၁၉၆၇–ခုနှစ်တွင် မန္တလေးမြို့ သုခဝတီဦးစိန်တင်၏ အစီအစဉ်ဖြင့် ပုံနှိပ်မှုပေါ်ထွက်ခဲ့သည်။ လယ်တီဦးလှပိုင်သည် လယ်တီအနွယ်ဖြစ်ပြီး လယ်တီ

*၁ အရှင်အာနန္ဒမေတ္တေယျထုတ်ဝေသော ၁၉၀၈–ခုနှစ်ထုတ် Buddhism စာစောင်တွင် မန္တလေးမြို့၌ အင်္ဂလိပ်ဘုရင်ခံက တောင်ခွင်သာသနာပိုင်အား သာသနာပိုင်လက်မှတ်အပ်နှင်းပုံအခမ်းအနား၌ မတ်ရပ်ဘွဲ့ပေးနေပုံကို တွေ့နိုင်သည်။

*၂ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ(၁၂)။ (စာမျက်နှာ–၁၁၇)။

သမိုင်းကိုစိတ်ဝင်စားသူဖြစ်သည့်အတွက် လယ်တီအကြောင်းအရာမှန်သမျှ ကုန်ကုန်စင်စင် လေ့လာကာ ခိုင်ခိုင်ခံ့ခံ့ပြည့်ပြည့်စုံစုံ နက်ရှိုင်းကျယ်ဝန်းစွာတင်ပြထားလေရာ လယ်တီဂန္ထ ဝင်ပုဂ္ဂိုလ်ကျော်များသမိုင်းကျမ်းသည်ကား လယ်တီစွယ်စုံကျမ်းတစ်စောင်အဖြစ် သုံးစွဲခြင်းငှာထိုက်လေ၏။ လယ်တီဂန္ထ ဝင်ပုဂ္ဂိုလ်ကျော်များ စာအုပ်၏ရှေ့သုံးပိုင်း၊ စာမျက်နှာ(၂၅၀)ကျော်ကို ပထမလယ်တီ ဆရာတော်ကြီး၏ ထေရုပ္ပတ်ကို အသားပေးရေးသားဖော်ပြထားသည်။ စတုတ္ထပိုင်းတွင် လယ်တီ အနွယ်ဝင် ကြောင်းပန်းဆရာတော်အစရှိသော ပုဂ္ဂိုလ်(၁၄)ဦးအကြောင်း၊ ပဉ္စမပိုင်းတွင် လယ်တီ အနွယ်ဝင် တူးမောင်းဆရာတော်ဦးနန္ဒိယအစရှိသော ပုဂ္ဂိုလ်(၅)ဦးအကြောင်းတို့ကို ဖော်ပြ ထားလေသည်။ လယ်တီဦးလှပိုင်သည် အချက်အလက်အစုအဆောင်းကောင်းရုံသာမက စုဆောင်း ရမိသမျှကို တည်ခင်းညှော်ခံပုံတို့မှာလည်း ကျနသေချာစေ့စပ်လှပေသည်။

## ၁၇။ ရွှေမုံတင်၏ လယ်တီနေမင်းကျမ်း

လယ်တီထေရုပ္ပတ္တိကျမ်းဟုအမည်မခံဘဲ လယ်တီနေမင်းကျမ်း–ဟူသောအမည်ဖြင့် လယ်တီ ထေရုပ္ပတ္တိစာအုပ်သည် ၁၉၇၃–ခုနှစ်အတွင်း ပေါ်ထွက်ခဲ့သည်။ ထိုစာအုပ်ကို အရှင်ဉာဏဝရသည် 'ရွှေမုံတင်' ကလောင်အမည်ဖြင့်ရေး၏။ ရွှေမုံတင်သည် သေဠှုတောင်ဦးတိလောက၊ ဒုတိယ မဟာလယ်တီဆရာတော်၊ ခင်မွန်ဦးကေတု၊ မုံရွာမြို့ ရွှေစည်းခုံဆရာတော်၊ ရေမိန်ဆရာတော်၊ လယ်တီပဏ္ဍိတ၊ လယ်တီဦးတေဇ၊ လယ်တီဦးကောဝိဒ–စသော လယ်တီအနွယ်မှ ဆင်းသက် လာသူဖြစ်သည်။ လယ်တီနေမင်းကျမ်းတွင် လယ်တီဆရာတော်ကြီးနှင့်စပ်၍ အဖိုးတန် အချက် အလက်များကို ရေးသားထားလေသည်။ ဤစာအုပ်တွင် လယ်တီဆရာတော်ကြီး မန္တလေးမြို့မှ မုံရွာမြို့သို့ပြန်လည်၍ကြွလာသောအခါ မုံရွာမြို့ရောက်လျှင် ရွှေစည်းခုံဆရာတော်က ဂရုဘက် လဟုဘက်များနှင့်တကွ ကျောင်းတိုက်တာအရာမ်ကြီးတို့ကို အပ်နှင်းတော်မူကြောင်း ဖော်ပြထားသည်။*၁ လယ်တီဆရာတော်ကြီး လှေကူးရပ်တောင်ပိုင်း မရိုးကုန်းရပ်ကွက်ရှိ စစ်ကဲကြီး ဦးရိုက်၏အကွက်ကို ဦးပိုင်းကဝယ်ယူပြီး ကျောင်းဆောက်လှူပုံကို ရေးဖွဲ့ထားသည်မှာလည်း မှတ်သားဖွယ်ဖြစ်သည်။*၂ ထို့ပြင် လယ်တီဆရာတော် လယ်တီတောသို့ထွက်တော်မူရာ နောက် တစ်နေ့နံနက်စောစော အရုဏ်တက်ချိန်တွင် ရက္ခစိုးနတ်ကအရုဏ်ဆွမ်းကပ်ပုံတို့ကို*၃ ဖော်ပြထား သည်တို့မှာ ဤစာအုပ်၏ထူးခြားချက်တို့ပင်ဖြစ်သည်။

## ၁၈။ ဓမ္မာစရိယဦးဌေးလှိုင်၏ လယ်တီဆရာတော်

ဓမ္မာစရိယဆရာကြီးဦးဌေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများကျမ်းကြီးသည် ၁၉၇၃–ခုနှစ်တွင် မြန်မာနိုင်ငံပဋိပတ္တိသာသနာဝင် အဖိုးတန်ကျမ်းကြီးတစ်ဆူအဖြစ် ထူးထူးကဲကဲပေါ်ထွက်လာသည်။ ဆရာကြီးဦးဌေးလှိုင်၏ နက်နက်နဲနဲရှာဖွေစုဆောင်းထားမှု၊ အရေးအသားချောပြေမှု၊ တင်ပြပုံအခင်း

*၁ လယ်တီနေမင်းကျမ်း။ (စာမျက်နှာ–၆၃)။

*၂ လယ်တီနေမင်းကျမ်း။ (စာမျက်နှာ–၆၄)။

*၃ လယ်တီနေမင်းကျမ်း။ (စာမျက်နှာ–၆၅)

အကျင်းကောင်းမွန်မှု၊ စိတ်ဝင်စားဖွယ်ကောင်းသောအချက်အလက်များကို ရွေးချယ်တင်ပြနိုင်မှုတို့ကြောင့် ထိုကျမ်းကြီးသည် ဗုဒ္ဓဘာသာဝင် ရဟန်းရှင်လူတိုင်း ဖတ်၍မငြီးနိုင် နှစ်သက်မြတ်နိုးကြပြီး သုတေသီတို့အတွက်လည်း ပဋိပတ်ဆိုင်ရာ လက်စွဲပြုရသည့်ကျမ်းကြီးတစ်ဆူဖြစ်သည်။ ထိုကျမ်းကြီးတွင် ပဋိပတ်၌ထင်ရှားသော ဆရာတော်ကြီးခြောက်ဆယ်တို့၏ ဘဝနှင့်ကျင့်စဉ်တို့ကို ကြည်ညိုစဖွယ်ထုတ်ဖော်တင်ပြထားရာတွင် ကျေးဇူးရှင်လယ်တီ ဆရာတော်ကြီး၏ ပဋိပတ်ကျင့်စဉ်သာသနာ့ဝင်ကိုလည်း စာမျက်နှာငါးဆယ်ခန့်အကျယ်ဝင့်၍ ဖွင့်ဆိုရေးသားထားသည်မှာ ပြည့်စုံကောင်းမွန်လှပေသည်။

၁၉။ ဆရာဦးသာတင်(ဆရာမာဃ)၏ လယ်တီဆရာတော်ကြီးအတ္ထုပ္ပတ္တိအကျဉ်း

မြန်မာနိုင်ငံဗုဒ္ဓသာသနာအဖွဲ့သည်[*၁] အဘိဓမ္မစိုးရိမ်ဆရာတော်ကြီး၏ဩဝါဒအတိုင်း လယ်တီဆရာတော်ဘုရားကြီး၏ ဝိပဿနာဒီပနီ၊ သမ္မာဒိဋ္ဌိဒီပနီ၊ မဂ္ဂင်ဒီပနီ၊ စတုသစ္စဒီပနီ၊ ဗောဓိပက္ခိယဒီပနီ၊ အလင်းကျမ်း၊ နိယာမဒီပနီနှင့် ပဋ္ဌာနုဒ္ဒေသဒီပနီတို့ပါဝင်သော လယ်တီဒီပနီပေါင်းချုပ်၊ ပထမတွဲကို ၁၉၆၆–ခုနှစ်တွင် ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။ ထိုကျမ်း၏ရှေ့ပိုင်းတွင် 'လယ်တီဆရာတော်ဘုရားကြီးအဋ္ဌုပ္ပတ်အကျဉ်း'ကို ထည့်သွင်းထားခဲ့သည်။[*၂] ထို 'လယ်တီဆရာတော်ဘုရားကြီးအဋ္ဌုပ္ပတ်အကျဉ်း'ကို ဗုဒ္ဓသာသနာအဖွဲ့ စာပြင်မှူးချုပ် ဝဏ္ဏကျော်ထင် ဆရာကြီးဦးသာတင်(ဆရာမာဃ) က ရေးသားခဲ့ပါသည်။ ဆရာကြီးဦးသာတင်က လယ်တီဆရာတော်ကြီး၏ အဋ္ဌုပ္ပတ်အကျဉ်းပြုစုရန်အတွက် ဆရာဦးထွန်းလှိုင်[*၃] ကိုအဖော်ပြုပြီး မန္တလေးမြို့၊ စစ်ကိုင်းမြို့နှင့် မုံရွာမြို့ပေါ်ရှိ ဘုန်းတော်ကြီးကျောင်းများသို့လှည့်လည်ကာ လယ်တီဆရာတော်ကြီးအကြောင်း စုံစမ်းမေးမြန်းမှတ်သားခဲ့ပါသည်။[*၄] ဆရာကြီးဦးသာတင်သည် လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ်ကို သိလည်းသိထား၊ ဆရာတော်ကြီးပြုစုခဲ့သောကျမ်းစာများကိုလည်း နှစ်သက်သူလည်းဖြစ်၍အကျယ်တဝင့်ရေးမည်ဆိုပါက စာတစ်စောင်ပေတစ်ဖွဲ့ရေးနိုင်စွမ်းသော်လည်း ဤလယ်တီဒီပနီပေါင်းချုပ်၊ ပထမတွဲတွင်မူ အကြောင်းအရာစုံလှရုံသာ ခပ်ကျဉ်းကျဉ်းရေးသားခဲ့သည်။ လယ်တီဆရာတော်ကြီးပြုစုတော်မူခဲ့သော ကျမ်းပေါင်း (၁၀၅) တို့၏ ကျမ်းစာရင်းတို့ကိုလည်း ပူးတွဲဖော်ပြထား၏။[*၅]

---

[*၁] သာသနာရေးဝန်ကြီးဌာနလက်အောက်ရှိ သာသနာရေးဦးစီးဌာနကိုဆိုလိုသည်။

[*၂] လယ်တီဆရာတော်ကြီး၏ လယ်တီဒီပနီပေါင်းချုပ်၊ ပထမတွဲ။ ဗုဒ္ဓသာသနာအဖွဲ့၊ ရန်ကုန်မြို့။ ၁၉၆၆–ခုနှစ်။ (စာမျက်နှာ င မှ ဈ အထိ)

[*၃] ဆရာကြီးဦးထွန်းလှိုင်(ဝိနယပါရဂူ၊ သ–စ–အ မွေ့ာစရိယ၊ ဝဋံသကာ၊ သီရောမဏိ၊ ဂဏဝါစက)သည် ဗုဒ္ဓသာသနာအဖွဲ့တွင် လက်ထောက်စာပြင်မှူးချုပ်ဖြစ်ပြီး ဆရာဦးသာတင် အငြိမ်းစားယူသောအခါ စာပြင်မှူးချုပ်ဖြစ်လာ၏။ နောင်အခါ မြတ်ဆုမွန်ဘာသာရေးမဂ္ဂဇင်း၏ စာတည်းချုပ်အဖြစ် ကွယ်လွန်သည့်တိုင်အောင်ဆောင်ရွက်ခဲ့ပါသည်။

[*၄] ဆရာဦးသာတင်သည် လယ်တီဆရာတော်ကြီး၏ အတ္ထုပ္ပတ် ရေးနိုင်ရန် မုံရွာမြို့ လယ်တီတိုက်သို့ရောက်ရှိပြီး မေးမြန်းစုံစမ်းခဲ့ပုံအကြောင်းကို 'သတိရတိုင်း လေးစားတမ်းတရမည့်ပုဂ္ဂိုလ်ကျော်' (ဆောင်းပါး) ၌ ရေးသားထားပါသည်။ ကလောင်စုံ၏ လယ်တီဦးကေ.ဒ(ပုပ္ပါးဦးကျော်ရင်)။ ၁၉၇၁–ခုနှစ်။ (စာမျက်နှာ–၉)။

[*၅] လယ်တီဒီပနီပေါင်းချုပ်၊ ပထမတွဲ။ ၁၉၆၆–ခုနှစ်။ (စာမျက်နှာ–ဎ)။

၂၀။ ဒေါ်စန်းမြမြ၏ ပထမလယ်တီဆရာတော်ဘုရားကြီး၏ စွမ်းဆောင်ချက်သမိုင်း(ဘွဲ့ယူကျမ်း)

မန္တလေးဝိဇ္ဇာနှင့်သိပ္ပံတက္ကသိုလ်၊ သမိုင်းဌာနက နည်းပြဆရာမဒေါ်စန်းမြမြသည် ၁၉၇၄–ခုနှစ်၌ မဟာဝိဇ္ဇာဘွဲ့အတွက် 'ပထမလယ်တီဆရာတော်ဘုရားကြီး၏ စွမ်းဆောင်ချက်သမိုင်း' ဟူသော ကျမ်းစာကိုတင်သွင်းခဲ့ပါသည်။*၁ ထိုကျမ်းတွင် လယ်တီဆရာတော်ဘုရားကြီး၏ နိုင်ငံတွင်းနိုင်ငံပ သာသနာပြုတော်မူပုံများနှင့် ရေးသားပြုစုတော်မူသော စာပေကျမ်းဂန်များ အကြောင်းတို့ကို သာသနာရေးလုပ်ငန်းရှုထောင့်နှင့် သမိုင်းရှုထောင့်တို့မှ ရှုမြင်သုံးသပ်ရေးသား တင်ပြထားပါသည်။ ထိုကျမ်း၌လက်နှိပ်စက်မူ စာမျက်နှာပေါင်း (၁၇၅) မျက်နှာပါရှိသည်။

၂၁။ ဆရာပါရဂူ၏ လယ်တီဆရာတော်(ဆောင်းပါး)

ဆရာပါရဂူသည် ငွေတာရီမဂ္ဂဇင်း၌ မြန်မာနိုင်ငံတွင် ထင်ရှားကျော်ကြားသောဆရာတော်ကြီးများအကြောင်းကို ငွေတာရီမဂ္ဂဇင်း၌ လစဉ်ဆောင်းပါးတစ်ပုဒ်ကျဖြင့်ရေးသားခဲ့ရာ ၁၉၆၇–ခုနှစ်၊ အောက်တိုဘာလထုတ် ငွေတာရီမဂ္ဂဇင်းတွင် 'လယ်တီဆရာတော်ကြီးအကြောင်း' ဆောင်းပါးကို ရေးသားခဲ့သည်။ ထို့ပြင် ၁၉၇၈–ခုနှစ်၊ ချင်းတွင်းမဂ္ဂဇင်းအမှတ်(၂)တွင်လည်း 'ကျေးဖူးရှင်လယ်တီဆရာတော်'ဟူသောခေါင်းစည်းဖြင့် လယ်တီဆရာတော်ကြီးထေရုပ္ပတ်အကျဉ်း အပါအဝင် လယ်တီဆရာတော်ကြီးအား ဦးခိုက်ဂုဏ်ပြုသောဆောင်းပါးတစ်ပုဒ်ရေးသားခဲ့ပါသည်။

ဆရာပါရဂူရေးသားခဲ့သော လယ်တီဆရာတော်ကြီးအကြောင်း ဆောင်းပါးနှစ်ပုဒ်တွင် ငွေတာရီမဂ္ဂဇင်းပါဆောင်းပါးသည် လယ်တီထေရုပ္ပတ္တိကိုစုစည်းမိရုံ တင်ပြခဲ့ခြင်းဖြစ်ပြီး၊ ချင်းတွင်းမဂ္ဂဇင်းပါဆောင်းပါးမှာ ဝေဖန်သုံးသပ်ချက်များပါသောကြောင့် ရေးဟန်မှာ ကြွကြွရွရွရှိလှသည်၊ လှုပ်ရှားသက်ဝင်နေလေသည်။ ထို့ပြင် ချင်းတွင်းမဂ္ဂဇင်းပါ လယ်တီဆရာတော်ကြီးအကြောင်း ဆောင်းပါးကို 'ပုဂ္ဂိုလ်တစ်ဦး တစ်ယောက်၏ကြီးကျယ်မြင့်မြတ်မှုပမာဏကို ဘာနဲ့တိုင်းတာမလဲ' ဟူသောမေးခွန်းဖြင့် ဆရာပါရဂူက စလိုက်သည်။ 'ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်သည် မိမိသယ်ပိုး ဆောင်ရွက်သည့် ပရဟိတလုပ်ငန်းအတိုင်းအတာပမာဏအရသာလျှင် မြင့်မြတ်ကြီးကျယ်သူ ဖြစ်ထိုက်လေသည်'ဟု မိမိအမေးကို မိမိကပင်အဖြေပေးလိုက်၏။ ထိုမူချသောစံအတိုင်း လယ်တီဆရာတော်ကြီး၏ဂုဏ်ထူးဝိသေသကို တိုင်းတာပြလေသည်။ ဆရာပါရဂူက 'ယင်းအမြင်ဖြင့် ကြည့်လျှင် လယ်တီဆရာတော်၏ဂုဏ်ထူးဝိသေသသည် မြင်းမိုရ်တောင်ကဲ့သို့ မြင့်မားလှပေသည်၊ မဟာပထဝီမြေပြင်ကဲ့သို့ ကျယ်ပြန့်လှပေသည်။ ပင်လယ်သမုဒ္ဒရာကဲ့သို့ နက်ရှိုင်းလှပေသည်။ အကြောင်းမူကား လယ်တီဆရာတော်သည် မိမိ၏ဘဝတစ်လျှောက်၌ ပရဟိတလုပ်ငန်းကို မောပန်းခြင်း မရှိဘဲ မရပ်မနားသယ်ပိုး ဆောင်ရွက်သွားခဲ့သောကြောင့်တည်း'*၂–ဟု ရှင်းပြထားပါသည်။

---

*၁ ဒေါ်စန်းမြမြ၏ ပထမလယ်တီဆရာတော်ဘုရားကြီး၏ စွမ်းဆောင်ချက်များသမိုင်း။ မဟာဝိဇ္ဇာဘွဲ့အတွက် တည်သွင်းသောစာတမ်း။ ၁၉၇၄–ခုနှစ်။ မန္တလေးမြို့။ လက်နှိပ်စက်မူ။

*၂ ပါရဂူ၏ ကျေးဇူးရှင်လယ်တီဆရာတော် (ဆောင်းပါး)။ ချင်းတွင်းမဂ္ဂဇင်း၊ အမှတ် (၂)။ (စာမျက်နှာ–၁၇)။

## ၂၂။ ဒေါ်ညိုညိုစိုး၏ လယ်တီဆရာတော်ကြီးဘဝနှင့်စာပေ(ဘွဲ့ယူကျမ်း)

အေဒီ ၁၉၇၆/၈၁–ခုနှစ်အတွင်း ရန်ကုန်တက္ကသိုလ် မြန်မာစာဌာနက ဆရာမဒေါ်ညိုညိုစိုးသည် လယ်တီဆရာတော်ကြီးဘဝနှင့်စာပေ'ကျမ်းကိုရေးသားပြီးတင်သွင်းခဲ့ရာ၊ ထိုကျမ်းသည် လယ်တီစာပေအုပ်စုတွင် ထူးခြားသောကျမ်းတစ်စောင်ဖြစ်လေသည်။ ထိုကျမ်းကို ဒေါ်ညိုညိုစိုး အလွန်အပင်ပန်းခံပြီး ကြိုးကြိုးပမ်းပမ်းပြုစုခဲ့ခြင်းဖြစ်သည်။ ထိုကျမ်းတွင် အလွန်ရှားပါးသော အထောက်အထားဖြစ်သည့် လယ်တီဦးကောဝိဒ(ပုပ္ပါးဦးကျော်ရင်)၏ လယ်တီထေရုပ္ပတ္တိ (လက်ရေးမူ)ကို ကိုးကားထားသည်။*၁

## ၂၃။ ဒေါ်စန်းမြမြ၏ လယ်တီရက်စဉ်သမိုင်း(စာတမ်း)

ဒေါ်စန်းမြမြသည် ၁၉၈၂–ခုနှစ်၊ သမိုင်းပါမောက္ခဒေါက်တာသန်းထွန်း၏ အသက်ခြောက်ဆယ်ပြည့် အထိမ်းအမှတ်အဖြစ်ထုတ်ဝေသော မဟာသမိုင်းဟင်းလေးစာတမ်းစာအုပ်ကြီးတွင် 'လယ်တီရက်စဉ်သမိုင်း' ခေါင်းစဉ်ဖြင့် လယ်တီဆရာတော်ဘဝနှင့်စပ်ဆိုင်သောခုနှစ်တို့ကို ရသမျှ ထုတ်နုတ်ကာ ရက်စဉ်ပြုစုထားသည်။ ထိုလယ်တီရက်စဉ်သမိုင်း*၂ တွင် လယ်တီဆရာတော်ကြီး၏ဘဝဖြစ်တော်စဉ်အကြောင်းအရာများကိုသာမက လယ်တီဆရာတော်ပြုစုခဲ့သော ကျမ်းစာများ၊ ဟောကြားတော်မူသောတရားတော်များတို့ကိုပါ ထည့်သွင်းထားပါသဖြင့် လယ်တီသုတေသီတို့အတွက် အားကိုးအားထားပြုရသည့် ရက်စဉ်သမိုင်းဖြစ်သည်။

## ၂၄။ ချစ်စံဝင်း၏ မြတ်လယ်တီ

လယ်တီဆရာတော်ကြီး၏ဘဝနှင့်စာပေကို သရုပ်ဖော်ရေးဖွဲ့ကြရာ၌ ၁၉၈၅–ခုနှစ်၌ ထွက်ပေါ်လာသော ဆရာချစ်စံဝင်း၏ မြတ်လယ်တီစာအုပ်သည်လည်း တစ်အုပ်အပါအဝင်ဖြစ်သည်။ ဆရာချစ်စံဝင်းသည် လယ်တီဆရာတော်ဖွားတော်မူရာ စိုင်ပြင်ရွာအပါအဝင် ဒီပရင်းမြို့နယ်၌ နှံ့နှံ့စပ်စပ်နေခဲ့ရပြီး၊ အသိအကျွမ်းပေါ်များသူဖြစ်သည်။ ထို့ပြင် စိုင်ပြင်ရွာ၌ လယ်တီအထိမ်းအမှတ်ဗိမာန်ကြီးပေါ်ထွက်လာအောင် နှစ်များစွာကပင်ကြိုးပမ်းနေခဲ့သူဖြစ်ပါ၍ လယ်တီဆရာတော်ကြီးအကြောင်း၊ လယ်တီသာသနာထွန်းကားရာဒေသအကြောင်းတို့ကို အကျွမ်းတဝင်ရှိသည့်အတိုင်း ပိုင်ပိုင်နိုင်နိုင်ရေးဖွဲ့နိုင်သူဖြစ်သည်။ ထိုမြတ်လယ်တီစာအုပ်ရေးသားရခြင်းရည်ရွယ်ချက်မှာ 'လယ်တီဆရာတော်ကြီး၏ အမျိုးသားရေးအမြင်နှင့် လယ်တီဆရာတော်ကြီး၏ စာပေအပေါ် လေ့လာတင်ပြချက်'ဖြစ်ကြောင်း ဆရာချစ်စံဝင်းက ရေးသားထားသည်။*၃ မြတ်လယ်တီစာအုပ်တွင် အခန်းပေါင်း(၁၅)ခန်းပါဝင်သည်။

---

*၁ မညိုညိုစိုး၏ လယ်တီဆရာတော်ကြီးဘဝနှင့်စာပေ။ ၁၉၈၀–ပြည့်နှစ်။ (စာမျက်နှာ–၁၊ ၂)။

*၂ Chronology။ အင်္ဂလိပ်စာပါမောက္ခ (ငြိမ်း) ဆရာကြီးဦးမျိုးမင်းက Time Scheme ခေါ် နှစ်ကာလအချိန်စာရင်းဟု သုံးနှုန်းပါသည်။ ပါမောက္ခဦးမျိုးမင်း၏ စာပေအဖွင့်ပုံကောင်းသင့်ပြီ (ဆောင်းပါး)။ စိန်ပန်းမြိုင်စာတမ်းနှင့်စစ်တမ်း။ (စာမျက်နှာ–၁၀၅)။

*၃ ချစ်စံဝင်း၏ မြတ်လယ်တီ။ ၁၉၈၅–ခုနှစ်။ (စာ–နိဒါန်း)။

## ၂၅။ လယ်တီတိုက်ကြီးအကြောင်းသိမှတ်ဖွယ်ရာအကျဉ်းချုပ်

၁၉၈၆–ခုနှစ်တွင် မုံရွာမြို့ပါတီယူနစ်ကော်မတီမှ ဆရာကြီးဦးလှမောင် (မောင်လှမြတ်၊ မုံရွာ) ဦးဆောင်၍ 'လယ်တီတိုက်ကြီးအကြောင်းကို သိမှတ်ဖွယ်ရာအကျဉ်းချုပ်' အမည်ဖြင့် အောက်ပါအကြောင်းရပ်များပါဝင်သော စာတမ်းတစ်စောင်ကို ရေးသားပြုစုခဲ့ပါသည်။ ထိုစာတမ်း၌ (၁) ကျေးဇူးရှင်လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ္တိအကျဉ်း*၁၊ (၂) မဟာလယ်တီတိုက်သမိုင်းအကျဉ်း*၂၊ (၃) လယ်တီဆရာတော်ပြုစုခဲ့သော စာပေကျမ်းဂန်များအညွှန်း*၃၊ (၄) မဟာလယ်တီကျောက်စာတိုက်ကြီးလမ်းညွှန်*၄ တို့ပါဝင်ကြပါသည်။

## ၂၆။ ဦးကြီးခင်နှင့် ဦးမြင့်ဆွေတို့၏ လယ်တီထေရုပ္ပတ္တိအကျဉ်းချုပ်

၁၉၇၉–ခုနှစ်တွင် မုံရွာမြို့ မဟာလယ်တီတိုက်မှ နဝမဆရာတော်ဦးကေလာသ*၅ သည် မုံရွာမြို့၊ မန္တလေးမြို့၊ ရန်ကုန်မြို့၊ ပဲခူးမြို့တို့မှ လယ်တီအနွယ်ရဟန်းရှင်လူပုဂ္ဂိုလ်တို့နှင့်တိုင်ပင်ပြီး လယ်တီစာပေထိန်းသိမ်းရေးနှင့် လယ်တီဒီပနီဝိသောဓကအဖွဲ့ကို ဖွဲ့စည်းတော်မူခဲ့ပါသည်။ ထိုအဖွဲ့၌ အဝေးရောက်အကြံပေးအဖြစ် ရန်ကုန်မြို့ မြန်မာပြည်စာအုပ်တိုက်ပိုင်ရှင် ဦးကြီးခင်နှင့်ဦးမြင့်ဆွေတို့လည်းပါဝင်ကြသည်။ ထိုပုဂ္ဂိုလ်နှစ်ဦးသည် ဝိသောဓကအဖွဲ့က သုတ်သင်ပြင်ဆင်ပြီး လယ်တီဒီပနီများကိုပုံနှိပ်ရာတွင် ထိုစာအုပ်များ၌ လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ္တိအကျဉ်းချုပ်ကို ရေးသားပေးခဲ့ကြပါသည်။*၆

## ၂၇။ သီတဂူဆရာတော်၏ လယ်တီထေရုပ္ပတ္တိအကျဉ်း(အင်္ဂလိပ်ဘာသာ)

သီတဂူဆရာတော်ကြီးဒေါက်တာအရှင်ဉာဏိဿရသည် ၁၉၉၁–ခုနှစ်မှစ၍ ကမ္ဘာကျော်ဝိပဿနာဆရာကြီး သိရီ အက် အင် ဂိုအင်ကာ*၇ ၏ဆန္ဒပြုချက်အရ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏ဖြစ်တော်စဉ်နှင့်ကျမ်းစာများကို သုတေသနပြုလေ့လာခဲ့ပြီး လယ်တီဆရာတော်ကြီးထေရုပ္ပတ္တိအကျဉ်း*၈ ကို အင်္ဂလိပ်ဘာသာဖြင့်ပြုစုတော်မူခဲ့သည်။*၉ ထိုစာအုပ်တွင် သိရီ အက် အင်

---

*၁ စုစုပေါင်း (၁၄)မျက်နှာပါရှိသည်။

*၂ စုစုပေါင်း (၂၂)မျက်နှာပါရှိသည်။

*၃ စုစုပေါင်း (၉)မျက်နှာ ပါရှိသည်။

*၄ စုစုပေါင်း (၂၅)မျက်နှာ ပါရှိသည်။

*၅ ယခု အဂ္ဂမဟာပဏ္ဍိတ နဝမလယ်တီဆရာတော်ကြီးအရှင်ကေလာသ ဖြစ်တော်မူပါသည်။

*၆ ဦးကြီးခင်နှင့် ဦးမြင့်ဆွေတို့ရေးသားသော လယ်တီဆရာတော်ကြီး၏ ထေရုပ္ပတ္တိအကျဉ်းကို ၁၉၈၇–ခုနှစ်၊ ရန်ကုန်မြို့ မြန်မာပြည်စာအုပ်တိုက်ရိုက် လယ်တီဝိသောဓကမှူ ဂမ္ဘီရကဗျာကျမ်း၊ ဝိဇ္ဇာမဂ္ဂဒီပနီကျမ်း စသည်တို့၌ဖတ်ရှုနိုင်ပါသည်။

*၇ Sri S.N. Goenkaji.

*၈ A Short Biography of The Venerable Ledi Sayadaw (Aggamahapandita, D.Litt.) (1846-1923). Thitagu Association, Yangoon.1996.

*၉ သီတဂူဆရာတော်၏ အင်္ဂလိပ်ဘာသာမှ လယ်တီထေရုပ္ပတ္တိအကျဉ်းကို မုံရွာမြို့ ဆရာကြီးဦးမာကျော်က မြန်မာဘာသာသို့ ပြန်ဆို၍ ၁၉၉၉–ခုနှစ်တွင် ပထမအကြိမ်၊ ၂၀၀၃–ခုနှစ်တွင် ဒုတိယအကြိမ်ပုံနှိပ်ပါသည်။

ဂိုအင်ကာက ထောမနာစကားရေးသားခဲ့ပါသည်။ ထိုစာအုပ်၌ လယ်တီဓမ္မအမွေခံများအကြောင်းကို ဖော်ပြရာတွင် လယ်တီဆရာတော်ကြီး၏ အာနာပါနနှင့်ဝိပဿနာကျင့်စဉ်အတိုင်း မြန်မာနိုင်ငံ၌ ကျင့်ကြံအားထုတ်နေကြပုံ၊ ဆရာတော်ကြီးဖွဲ့စည်းတည်ထောင်ခဲ့သော ပရမတ္ထသံခိပ်အသင်း, ပဋ္ဌာနသမုပ္ပါဒ်အသင်း, နိုင်ငံခြားသာသနာပြုအသင်း, နွားသားရှောင်ကြဉ်ရေးအသင်း, ပိဋကဘာသာပြန်အသင်းတို့သည်လည်း နိုင်ငံအနှံ့တည်ရှိပြီး သာသနာပြုလုပ်ငန်းတို့ကိုလုပ်ဆောင်နေကြပုံ၊ လယ်တီဆရာတော်ကြီးချမှတ်ခဲ့သော နည်းမူအတိုင်း လယ်တီအနွယ်ဝင်ပုဂ္ဂိုလ်ကြီးများက ဆောင်ရွက်ကြပုံများ၊ လယ်တီဆရာတော်၏နည်းဖြင့် ဆရာသက်ကြီး, ဆရာကြီးဦးဘခင်, ဟံသာဝတီကမ္မဋ္ဌာန်းဌာန, လယ်တီမူကမ္မဋ္ဌာန်းဌာန, မန္တလေးမြို့ မဟာဗောဓိရိပ်သာကမ္မဋ္ဌာန်းဌာနများ၏လုပ်ကိုင်ဆောင်ရွက်ကြပုံအကြောင်းကိုလည်းဖော်ပြထား၏။ ထို့နောက် လယ်တီတရားသတင်းစာအကြောင်း ဖော်ပြထား၏။ လယ်တီဆရာတော်ကြီး၏ ဝါဆိုစဉ်အကျဉ်းချုပ်[*၁] နှင့် ဆရာတော်ကြီးပြုစုသော ကျမ်းစာပေါင်း(၁၀၀)တို့ကို နောက်ဆက်တွဲအဖြစ် တင်ပြထားပါသည်။[*၂]

## ၂၈။ အရှင်ကေလာသ(ဝိဇ္ဇာ၊ဂုဏ်ထူး)၏ လယ်တီထေရုပ္ပတ္တိကထာ

သာသနာဝင်ကျမ်းပေါင်းများစွာကိုရေးသားပြုစုတော်မူခဲ့ပြီး ၁၃၅၄–ခုနှစ်ကပျံလွန်တော်မူခဲ့ပြီဖြစ်သော ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် အဂ္ဂမဟာပဏ္ဍိတ အရှင်ကေလာသ(ဓမ္မာစရိယ၊ ဂဏဝါစက၊ ဘီအေ–ဂုဏ်ထူး)သည် မန္တလေးသာသနာဝင်ကျမ်းကြီး (၂၅)တွဲကို ဆရာကြီးဦးလှမောင်(နိုင်ငံတော်ကောင်စီဝင်ဟောင်း)နှင့် ဒုတိယဝန်ကြီး(ငြိမ်း)ဦးကြည်ညွန့်တို့၏ တောင်းပန်လျှောက်ထားချက်အရ သက္ကရာဇ် ၁၃၃၀–ပြည့်နှစ်မှစတင်ပြုစုတော်မူခဲ့ရာ (၁၇) နှစ်အကြာ သက္ကရာဇ် ၁၃၄၇–ခုနှစ်တွင်ပြီးဆုံးခဲ့သည်။ လက်နှိပ်စက်မူဖြင့် စာမျက်နှာပေါင်း(၁၅၀၀၀)ရှိခဲ့သည်။[*၃] ထိုမန္တလေးသာသနာဝင်ကျမ်း(၂၅)တွဲတွင် ပထမတွဲမှပဉ္စမတွဲအထိ (၅)တွဲသာပုံနှိပ်မူအဖြစ်ရောက်ရှိခဲ့သည်။[*၄] ဆရာတော်အရှင်ကေလာသ၏ ပုံနှိပ်မူသို့မရောက်သေးသော မန္တလေးသာသနာဝင်ကေစီသတိမတွဲ (အတွဲ–၂၁)တွင် မန္တလေးတောင်သမိုင်းနှင့် မန္တလေးမြို့မြောက်ပြင်ရှိ မဟာဇေတဝနာရာမစံကျောင်းတိုက်ကြီး၏သမိုင်းတို့ကိုဖော်ပြရာ၌ စံကျောင်းတိုက်သား လယ်တီဆရာတော်ဘုရားကြီး၏အကြောင်း လက်နှိပ်စက်မူဖြင့် စာမျက်နှာပေါင်း (၂၀၈) မျက်နှာ ပြုစုထားလေရာ စာတစ်အုပ်စာ ပြည့်ပြည့်စုံစုံရှိလေသည်။

## ၂၉။ လယ်တီဦးကောဝိဒ၏ လယ်တီထေရုပ္ပတ္တိ(လက်ရေးမူ)

အစိုးရပထမကျော်၊ အမျိုးသားပရိယတ္တိပထမကျော် ဒဂုန်မဂ္ဂဇင်းအယ်ဒီတာချုပ် ဆရာကြီးပုပ္ပါးဦးကျော်ရင်ဘွဲ့ခံ လယ်တီဦးကောဝိဒသည် လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ္တိကို ဂါထာ

---

*၁ Ashin Nyanissara' A Short Biography of The Ledi Sayadaw. (P-53).

*၂ /Ashin Nyanissara' A Short Biography of The Ledi Sayadaw. (P-56).

*၃ အရှင်ကေလာသ၏ အရှင်ကေလာသကြိုးပမ်းချက်အဖြာဖြာအတုယူစရာ။ (စာမျက်နှာ–၃၁၆)။

*၄ မန္တလေးသာသနာဝင်၊ ပထမတွဲ ၁၃၄၂–ခုနှစ်၊ ဒုတိယတွဲ ၁၃၄၃–ခုနှစ်၊ တတိယတွဲ ၁၃၄၉–ခုနှစ်၊ စတုတ္ထတွဲ ၁၃၄၆၊ ပဉ္စမတွဲ ၁၃၄၈–ခုနှစ်တို့ကို သာသနာရေးဦးစီးဌာနက ပုံနှိပ်ခဲ့သည်။

(၁၀၀၀)တို့ဖြင့် ဖွဲ့နွဲ့ရေးသားရန်ပြင်ဆင်ထားသော်လည်း ဂါထာ(၁၀၀)ခန့်သာ ရေးသားခဲ့ကြောင်း သိရ၏။ လယ်တီဦးကောဝိဒ၏ လယ်တီထေရုပ္ပတ္တိ(လက်ရေးမူ)ကို ဒေါ်ညိုညိုစိုး၏မဟာဝိဇ္ဇာဘွဲ့ယူကျမ်း၌ ကိုးကားထားကြောင်းတွေ့ရသည်။*၁ ဦးကောဝိဒသည် လယ်တီဆရာတော်ကြီး၏ ထေရုပ္ပတ္တိကို ပြီးဆုံးသည်အထိ ရေး,မရေးကိုကား မည်သူမျှမသိပေ။ ထိုစာမူကို ဦးကောဝိဒတပည့် လယ်တီဦးလုပိုင်ကြည့်ရှုဖူးပြီး ရွှေညာမောင်ဦးချင်းစိန်ထံ၌ လမ်းဆုံးသွားကြောင်းသိရပါသည်။*၂

## ၃၀။ ဒေါ်ဌေးဌေးလွင်၏ မဟာလယ်တီသာသနာဝင်(အင်္ဂလိပ်ဘာသာ)

မုံရွာတက္ကသိုလ် သမိုင်းဌာနမှ နည်းပြဆရာမဒေါ်ဌေးဌေးလွင်သည် မဟာလယ်တီ သာသနာဝင်ကျမ်းကို ၁၉၉၈–ခုနှစ်တွင် မဟာဝိဇ္ဇာဘွဲ့အတွက်ဖြည့်စွက်တင်သွင်းခဲ့သည်။*၃ ထိုကျမ်းတွင် ကဏ္ဍသုံးခုပါရှိပြီး ပထမကဏ္ဍမှာ လယ်တီကျောင်းတိုက်ကြီးဖြစ်ပေါ်လာပုံဖြစ်သည်။*၄ ထို့နောက် လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ္တိအကျဉ်းကို စာမျက်နှာ (၇)မျက်နှာခန့် ဖော်ပြထားသည်။*၅ လယ်တီသာသနာဝင်ကိုဖော်ပြ၍ အဆုံးသတ်ထားသည်။

## ၃၁။ ချစ်စံဝင်း၏ လယ်တီအင်းနံဘေးမှ ခြသေ့်မင်းဟိန်းသံ

လယ်တီဆရာတော်၏ထေရုပ္ပတ္တိစာအုပ်တို့တွင် ဆရာချစ်စံဝင်း၏ အေဒီ ၂၀၀၃–ခုနှစ်တွင်ပေါ်ထွက်ခဲ့သော 'လယ်တီအင်းနံဘေးမှ ခြသေ့်မင်းဟိန်းသံ' အမည်ပေးထားသည့်စာအုပ်သည်လည်း တစ်အုပ်အပါအဝင်ဖြစ်သည်။ ဤစာအုပ်တွင် အခန်းပေါင်း (၂၇)ခန်း၊ စာမျက်နှာ (၁၇၂)မျက်နှာပါရှိသည်။ ရှေးယခင်ကဆရာရေးခဲ့သော မြတ်လယ်တီစာအုပ်ထက် ဆရာတော်ကြီး ဘဝကို ပိုမိုကျယ်ပြန့်စွာ သရုပ်ဖော်ရေးသားထားပါသည်။ လယ်တီအနွယ်များရင်းနှီးပြီး၊ လယ်တီ ဆရာတော်ကြီး သာသနာပြုများဌာနအသီးသီးသို့ ရောက်ရှိဖူးကာ၊ လယ်တီစာပေကိုမြတ်နိုးသူ ဆရာဦးချစ်စံဝင်း၏လက်ရာဖြစ်၍ အထူးကောင်းမြတ်လှသောလယ်တီထေရုပ္ပတ်ကျမ်းငယ် တစ်ဆူဖြစ်ပါသည်။

## ၃၂။ သံဃာဂုဏ်ရည်မြတ်လယ်တီ (ဗွီစီဒီ)

အေဒီ ၂၀၀၆–ခုနှစ်တွင် မြသတီရုပ်မြင်သံကြားအဖွဲ့၏အစီအစဉ်အရ 'သံဃာဂုဏ်ရည် မြတ်လယ်တီ' အမည်ဖြင့် လယ်တီဆရာတော်ဘုရားကြီး၏ထေရုပ္ပတ်ဖြစ်တော်စဉ် ဇာတ်လမ်း

---

*၁ ဒေါ်ညိုညိုစိုးထံ ထိုစာမူအကြောင်းစုံစမ်းရာ ထိုစာမူကို ရွှေညာဦးချင်းစိန်(မောင်ကြည်ရှင်)ထံမှ ကြည့်ရှုခဲ့ရကြောင်း၊ ထိုထေရုပ္ပတ္တိတွင် မြန်မာစကားပြေကြားညှပ်၍ရေးထားကြောင်းနှင့် လက်ရေးမူစာမျက်နှာ အနည်းငယ်သာဖြစ်ကြောင်း သိရ၏ ။

*၂ လယ်တီဦးလုပိုင်၏ သမီး ဆရာမဒေါ်ခင်မြင့်ပြောပြချက်အရ သိရပါသည်။ ဆရာမဒေါ်ခင်မြင့်မှာ လယ်တီဦးကောဝိဒ၏ ဘဝနှင့်ကျမ်းစာ–စာတမ်းဖြင့် မဟာဝိဇ္ဇာဘွဲ့(မြန်မာစာ)ကို ရရှိခဲ့ပါသည်။

*၃ Htay Htay Lwin' History of The Mahā Ledi Sāsanā. (A Thesis Submitted to Mandalay University in Partial Fulfilment of the Requirements for the Degree Master of Arts.) May, 1998.

*၄ Htay Htay Lwin' History of The Mahā Ledi Sāsanā. (P-1).

*၅ Htay Htay Lwin' History of the Mahā Ledi Sāsanā. (P-3 to 10.)

သရုပ်ဖော် ဗွီစီဒီအပိုင်းပေါင်း (၂၈)ပိုင်းထွက်ပေါ်လာခဲ့ပါသည်။ ထိုဗွီစီဒီကိုစီစဉ်သူတို့မှာ ဇာတ်ညွှန်းဆရာဦးချစ်စံဝင်းနှင့် မင်းဗေဒါ (ပွင့်ဖြူ)၊ တည်းဖြတ်သူ မြင့်မြင့်ကြည်တို့ဖြစ်ကြသည်။ ဤဗွီစီဒီတွင် လယ်တီဆရာတော်ဘုရားကြီး ဖွားတော်မူသည်မှ ဘဝနတ်နန်းစံမြန်းသည်အထိ ဆိုင်ရာနေရာဒေသများကို သွားရောက်ကာ ရိုက်ကူးမှတ်တမ်းတင်ခြင်း၊ အကျိုးအကြောင်းပြောပြနိုင်သော ပညာရှင်များ၏ ပြောကြားချက်တို့ဖြင့်တင်ဆက်ထားရာ အသံလည်းကြားရ, အရုပ်လည်းမြင်ရသဖြင့် လယ်တီဆရာတော်ဘုရားကြီး၏ဂုဏ်တော်ကျေးဇူးတော်တို့ကိုသိရှိကြရကာ အလွန်ကျေးဇူးများသော လယ်တီထေရုပ္ပတ္တိဇာတ်လမ်းတွဲများဟုဆိုရပေမည်။

## ၃၃။ နိုင်ငံခြားသားများနှင့်လယ်တီထေရုပ္ပတ္တိ

လယ်တီဆရာတော်ဘုရားကြီး၏ဂုဏ်သတင်းကို အနောက်နိုင်ငံသားများသည် ၁၉၁၀–ပြည့်(၁၂၇၁–ခုနှစ်) မတိုင်မီကပင်သိရှိကြပြီးဖြစ်သည်ဟု ခန့်မှန်းမိသည်။ အကြောင်းမှာ မေဘလ် ဟိန်း ဘုတ်[*၁] အမည်ရှိ ပါဠိစာပေပညာရှင်အမျိုးသမီးကြီး၏မိတ်ဆက်ပေးမှုကြောင့် လယ်တီဆရာတော်ကြီး၏ဂုဏ်သတင်းကို အင်္ဂလိပ်လူမျိုးပါဠိစာပေသုတေသနပညာရှင်တို့သိကြခြင်းဖြစ်လေသည်။ ထိုအမျိုးသမီးကြီး ၁၉၀၉–ခုနှစ်တွင်ရေးသော မြန်မာနိုင်ငံပါဠိစာပေသမိုင်းကျမ်း[*၂] တွင် လယ်တီဆရာတော်ကြီးသည် (၂၀)ရာစုခေတ်ဦး၌ ကျော်ကြားထင်ရှားလျက်ရှိသော ပါဠိစာပေပညာရှင်ကြီးတစ်ဆူအဖြစ် တင်ပြထားသည်။ လယ်တီဆရာတော်ကြီးပြုစုသော ဒီပနီကျမ်းများကိုလည်း စာရင်းချပြထားပေသည်။[*၃]

ထို့နောက် ၁၉၁၂–ခုနှစ်ဝန်းကျင်က မြန်မာနိုင်ငံတွင်း၌အုပ်ချုပ်နေကြသော မျက်နှာဖြူအင်္ဂလိပ်လူမျိုးတို့ကလည်း လယ်တီဆရာတော်ကြီး၏ဂုဏ်သတင်းကို သတိပြုမိကြသည်။ ထိုခေတ်က အင်္ဂလိပ်အုပ်ချုပ်ရေးသမားတိုင်း၏လက်စွဲဖြစ်သော ဂေဇက်တီးယားခေါ် အောက်ချင်းတွင်းခရိုင်မှတ်တမ်း၌ လယ်တီဆရာတော်ကြီး၏ဂုဏ်သတင်းကို အစီရင်ခံဖော်ပြထားသောကြောင့်ဖြစ်သည်။[*၄]

ပြည်ထောင်စုမြန်မာနိုင်ငံ ဗုဒ္ဓသာသနနုဂ္ဂဟအဖွဲ့က အင်္ဂလိပ်ဘာသာဖြင့်ပုံနှိပ်ထုတ်ဝေသော လယ်တီဒီပနီများအင်္ဂလိပ်ဘာသာပြန်ကျမ်း(The Manuals of Buddhism) တွင် လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ္တိအကျဉ်းကို တစ်မျက်နှာခန့်ဖော်ပြထားသည်။[*၅]

---

*၁ Mabel Haynes Bode. Ph. D.

*၂ The Pali Literature of Burma. Page-97. ထိုစာအုပ်ကို ၁၉၀၉–ခုနှစ်၊ လန်ဒန်မြို့ The Royal Asiatic Society မှ ပထမအကြိမ်ပုံနှိပ်ခဲ့ပြီး၊ ၁၉၆၅–ခုနှစ်တွင် မြန်မာနိုင်ငံသုတေသနအသင်းက ဒုတိယအကြိမ်ပုံနှိပ်ခဲ့လေသည်။

*၃ The Pali Literature of Burma 1965. Page-98. ထိုကျမ်းများ လန်ဒန်မြို့ ဗြိတိသျှပြတိုက်သို့ ၁၉၁၃–ခုနှစ်မတိုင်မီကပင် ရောက်ရှိနေပြီးဖြစ်သည်။ A Catalogue of The Burmese Books in The British Musenm. Page 116-121.

*၄ J.P. Hardiman' Burma Gagetteer: Lower Chindwin District, Volume A. 1967. Page-33.

*၅ The Manuals of Buddhism. P-III.

မလေးရှားနိုင်ငံ သေလင်္ဂုန်အဖွဲ့မှထုတ်ဝေသော လယ်တီဆရာတော်ကြီး၏ ဒီပနီအင်္ဂလိပ် ဘာသာပြန်စာအုပ် 'The Manuals of the Dhamma စာအုပ်တွင် လယ်တီဆရာတော်ကြီး ထေရုပ္ပတ္တိအကျဉ်းကို သုံးမျက်နှာခန့်ဖော်ပြထားသည်။ နောက်ဆက်တွဲတွင် ဆရာတော်ကြီးပြုစုသော ကျမ်းစာ ၇၆-စောင်တို့ကိုလည်း ဖော်ပြထားသည်။ ထိုစာအုပ်မှာ ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ (နောင်-သာသနာရေးဦးစီးဌာန)မှထုတ်ဝေခဲ့သော လယ်တီဆရာတော်ကြီး၏ အင်္ဂလိပ်ဘာသာ ဒီပနီ(၈)စောင်တွဲ (The Manuals of the Dhamma) ကို ပြန်လည်ပုံနှိပ်ထားခြင်းပင်ဖြစ်သည်။

လယ်တီဒီပနီအင်္ဂလိပ်ဘာသာပြန်တို့ကို သီရိလင်္ကာနိုင်ငံ ကန်ဒီမြို့ရှိ ဗုဒ္ဓဘာသာဆိုင်ရာ ပုံနှိပ်ထုတ်ဝေရေးအဖွဲ့[*၂] က စကြာ (Wheeels) ထုတ်ဝေရေးစာစဉ်[*၃] ဖြင့် သီးခြားတစ်အုပ်ချင်း ပုံနှိပ်ထုတ်ဝေဖူးလေသည်။ ထိုစကြာထုတ်ဝေရေးစာစဉ် အမှတ် ၃၁/၃၂ ဖြင့် ပုံနှိပ်ထုတ်ဝေသော လယ်တီဆရာတော်ကြီး၏ ဝိပဿနာဒီပနီအင်္ဂလိပ်ဘာသာပြန်[*၄] ကျမ်း(စာမျက်နှာ-၈၅)တွင်လည်း လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ္တိအကျဉ်းကိုဖော်ပြထားသည်။ ထိုစာအုပ်များ၌ဖော်ပြထားသော လယ်တီထေရုပ္ပတ္တိအကျဉ်းသည် မြန်မာနိုင်ငံသာသနာရေးဦးစီးဌာနကပုံနှိပ်ခဲ့သော The Manuals of the Dhamma စာအုပ်ပါ လယ်တီထေရုပ္ပတ္တိမှုနှင့် အချက်အလက်ချင်း ကွာခြားမှုမရှိလှပေ။

ထို့ပြင် အင်္ဂလန်နိုင်ငံ လန်ဒန်မြို့ ပါဠိကျမ်းစာအသင်းကြီးနှင့် ပါဠိဖောင်ဒေးရှင်းမှ မစ္စတာ ဒေးဗစ်ဆင်[*၅] သည် မြန်မာနိုင်ငံသို့လာရောက်ပြီးလျှင် ကမ္ဘာ့ဗုဒ္ဓသာသနာပြုဆရာတော် အရှင်သေဋ္ဌိလာဘိဝံသ၏ကူညီမှုဖြင့် လယ်တီဆရာတော်ကြီးဒီပနီများကို အင်္ဂလိပ်ဘာသာပြန်ဆိုနိုင်ရန်၊ ပြန်ဆိုပြီးသောလယ်တီဒီပနီဘာသာပြန်စာအုပ်များကို ပြန်လည်တည်းဖြတ်ပြီးပုံနှိပ်ထုတ်ဝေရန် ဆောင်ရွက်ခဲ့ပါသည်။ မစ္စတာဒေးဗစ်ဆင်၏ဆောင်ရွက်ချက်အရ ဝိဇ္ဇာမဂ္ဂဒီပနီကို အလုပ်သမားဝန်ကြီးဌာနအတွင်းဝန် ဦးပု(ငြိမ်း)က ဘာသာပြန်ခဲ့သည်။[*၆] အလင်းကျမ်းကို မူလဘာသာပြန်ဆိုစဉ်က ကြွင်းကျန်ခဲ့သော အပိုင်းများကိုပါ ထည့်သွင်းပြီး ဦးတင်ဦး(မြောင်)က ထပ်မံ၍ဘာသာ ပြန်ခဲ့သည်။[*၇] ထိုဘာသာပြန် ကျမ်းကိုပုံနှိပ်သောအခါတွင် လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ္တိ အကျဉ်းကို ထည့်သွင်းဖော်ပြထားလေသည်။ ထိုသို့ဖော်ပြရာတွင်လည်း The Manuals of the Dhamma စာအုပ်ပါ လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ္တိအကျဉ်းအတိုင်းပင် ပြန်လည်ဖော်ပြထားခဲ့လေသည်။

---

[*၁] Selangor Buddhist Vipassanā Meditation Society. No. 29-B, Jalan 17/45, 46400 Petaling Jaya. Selangor Darul Ehsan, West Malaysia.

[*၂] The Buddhist Publication. 210, Cotambo Street, Kandy, Ceylon.

[*၃] The Wheel Publication.

[*၄] Ledi Sayadaw' Manual of Insight. Ceylon, 1961.

[*၅] S.S. Davidson.

[*၆] U Pu' A Manual of the Path Leading to the Attainment of Super knowledge.

[*၇] U Tin Oo (Myaung)' The Manual of Light. 1961. CPC Reprographics Limited, Portsmouth, England.

နောက်ဆက်တွဲ(၃)

# လယ်တီဆရာတော်ဘုရားကြီး၏ ဇာတာတော်ပုံစံများ

လယ်တီဆရာတော်ဘုရားကြီးက မိမိသည် ကောဇာသက္ကရာဇ် ၁၂၀၈–ခုနှစ်၌ဖွားတော်မူခဲ့ကြောင်းကို သဂြိုဟ်မဟာဋီကာသစ်၊ အနုဒီပနီပါဌ်၊ နိရုတ္တိဒီပနီပါဌ်၊ ပဋ္ဌာနုဒ္ဒေသဒီပနီပါဌ်နှင့် ပရမတ္ထသံခိပ်စသည့်ကျမ်းတို့၏နိဂုံးများတွင် ပါဠိဘာသာ, မြန်မာဘာသာတို့ဖြင့် ရေးသားဖော်ပြတော်မူခဲ့သည်။ ဖွားဇာတာတော်ပုံအပြည့်အစုံကိုကား ညွှန်ပြထားတော်မမူခဲ့ပေ။

လယ်တီဆရာတော်ကြီး၏ထေရုပ္ပတ္တိကျမ်းများနှင့် အခြားကျမ်းစာ စာအုပ်များတွင် လယ်တီဆရာတော်ကြီး၏ဖွားဇာတာတော်ကိုဖော်ပြထားကြသော်လည်း တစ်မူနှင့်တစ်မူ တူညီမှုမရှိကြောင်း တွေ့ရှိရသည်။ ထိုသို့ကွဲပြားနေသော လယ်တီဆရာတော်ကြီး၏ဖွားဇာတာတော်ပုံများကို ဤနေရာ၌ စုဆောင်းရမိသမျှ တင်ပြလိုပေသည်။

## ဇာတာတော်ပုံ(၁)

လယ်တီဆရာတော်ကြီးသက်တော်ထင်ရှားရှိတော်မူစဉ်အခါက သက္ကရာဇ် ၁၂၇၀(၁၉၀၈)ခုနှစ်တွင် ပုံနှိပ်ခဲ့သော လယ်တီပဏ္ဍိတ(ဆရာဦးမောင်ကြီး)၏ သဒ္ဒမဉ္ဇရီကျမ်းနှင့် သက္ကရာဇ် ၁၂၇၅(၁၉၁၃) ခုနှစ်တွင် ပုံနှိပ်သော ပရမတ္ထသံခိပ်သရုပ်ခွဲအမေးအဖြေကျမ်းတို့တွင် ဆရာတော်ကြီး၏ဇာတာတော်ပုံကို အောက်ပါအတိုင်းဖော်ပြထားသည်။

| | | |
|---|---|---|
| ၅ | | |
| | ၃ | ၀ |
| လ | ၂ ၃ ၈ | ၁၄၆ |

၈

| | |
|---|---|
| ၁၁ | ၅ |
| ၁၄ | ၂ |
| ၁၇ | ၂၆ |
| ၂၀ | ၂၃ |

အမိပတိတိုင်

စင်
၁၅
၂
၅

ဇာတာတော်ပုံ(၁)

အထက်ပါဇာတာတော်ပုံကို အောက်ဖော်ပြပါစာအုပ်များတွင်လည်း ဖော်ပြထားကြောင်း တွေ့ရသည်။

၁။ ဆရာရွှေ၏လယ်တီမဟာထေရုပ္ပတ္တိကထာ။ ၁၂၈၅(၁၉၂၃)ခုနှစ်ရိုက်။ (စာမျက်နှာ–က)။

၂။ လယ်တီဦးဝဏ္ဏိတ၏လယ်တီမဟာထေရုပ္ပတ္တိကထာ။ ၁၂၈၈(၁၉၂၆)ခုနှစ်ရေး။ (စာမျက်နှာ–၅)။

၃။ လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ကျော်များသမိုင်း။ ၁၃၂၉(၁၉၆၇)ခုနှစ်ရိုက်။ (စာမျက်နှာ–၁၆)။

၄။ မဟာလယ်တီကြီးအကြောင်းသိမှတ်ဖွယ်ရာအကျဉ်းချုပ်။ ၁၃၄၈(၁၉၈၆)–ခုနှစ်ပြုစု။ (စာမျက်နှာ–၁)။

### ဇာတာတော်ပုံ(၂)

လယ်တီပဏ္ဍိတဆရာဦးမောင်ကြီး၏ သက္ကရာဇ် ၁၃၂၃(၁၉၆၁)ခုရိုက် ကဗျာ့မဥ္ဇရီကျမ်း (စာမျက်နှာ–၁၄၈) တွင် လယ်တီဆရာတော်ကြီး၏ရက်ချုပ်ဇာတာပုံကို အောက်ပါအတိုင်း ဖော်ပြထား၏။

| | | |
|---|---|---|
| ၅ | | |
| | ၃ | ၀ |
| လ | ၂ ၃ ၈ | ၁၄၆ |

| ၈ | |
|---|---|
| ၁၁ | ၅ |
| ၁၄ | ၂ |
| ၁၇ | ၂၆ |
| ၂၀ | ၂၃ |

အဓိပတိတိုင်

ဇာတာတော်ပုံ(၂)

အထက်ပါကဗျာ့မဥ္ဇရီကျမ်းကို လယ်တီပဏ္ဍိတဦးမောင်ကြီး သက်ရှိထင်ရှားရှိစဉ်ကပင် ပြုစုခဲ့ခြင်း၊ သို့မဟုတ် ပုံနှိပ်ရန်စုစည်းပေးခဲ့ခြင်းဟုတ်,မဟုတ်ကို အတိအကျမသိရပါ။ ထိုစာအုပ် ပုံနှိပ်သော ရန်ကုန်မြို့ ပညာ့အလင်းပြစာအုပ်တိုက်သို့စုံစမ်းမေးမြန်းရာ၊ ပညာ့အလင်းပြစာအုပ် တိုက်က 'ထိုကဗျာ့မဥ္ဇရီကျမ်းကို ဆရာကြီးဦးမောင်ကြီး၏တပည့် အရှင်တေဇောသာရဘွဲ့ခံ ဆရာကြီးဒဂုန်ဦးထွန်းမြင့်စီစဉ်ပြီးပုံနှိပ်ခဲ့ခြင်းဖြစ်ကြောင်း' ပြန်ကြားခဲ့ပါသည်။ သို့ဖြစ်၍ ထိုစာအုပ် ပါ လယ်တီဆရာတော်ကြီး၏ဇာတာတော်ပုံသည် မူလကျမ်းပြုပုဂ္ဂိုလ် လယ်တီပဏ္ဍိတဆရာ ဦးမောင်ကြီး၏လက်ရာလော၊ သို့မဟုတ် ကျမ်းစီစဉ်သူ ဆရာဒဂုန်ဦးထွန်းမြင့်လက်ရာလော ဆိုသည်ကို မဝေခွဲသာပေ။ အထက်၌ပြဆိုခဲ့သော ဇာတာတော်ပုံ(၁)ပါ ဆရာတော်ကြီး၏ ဇာတာတွင် ဆရာတော်ကြီး၏လဂ်သည် ကန်ရာသီ၌တည်ရှိပြီး၊ ယခု ကဗျာ့မဥ္ဇရီပါဇာတာ တော်ပုံ(၂)၌ တူရာသီတည်ရှိကြောင်းဖော်ပြထားပါသည်။

### ဇာတာတော်ပုံ(၃)

လယ်တီဦးလှပိုင်၏ လယ်တီဂန္ထဝင်ပုဂ္ဂိုလ်ကျော်များကျမ်းကို မန္တလေးမြို့ သုခဝတီပုံနှိပ် တိုက်၌ရိုက်နှိပ်ရာ ကြီးကြပ်ပြင်ဆင်ခဲ့သော စစ်ကိုင်းမြို့ ဆားတောင်ရွာအနီး ကျားမင်းကြီးရွာ ဇာတိ မြန်မာပညာရှိဆရာကြီးဦးခင်(ကျားမင်းကြီးဆရာခင်)က ဤလယ်တီဂန္ထဝင်ပုဂ္ဂိုလ်ကျော်၌ ဖော်ပြထားသော လယ်တီဆရာတော်ဘုရားကြီး၏ဇာတာတော်သည် ချို့ယွင်းနေသည်ဟု ထောက်ပြ၏။ ဆရာကြီးဦးခင်က ဆရာတော်ကြီး၏မွေးရက်သည် လဆန်း ၁၃–ရက်မဟုတ်နိုင်၊

လပြည့်ကျော် ၁၃–ရက်[*၁] သာဖြစ်မည်။ အကယ်၍ လဆန်း ၁၃–ရက်ဖြစ်ပါမူ စန်းသည် တူရာသီ၌မရှိနိုင်။ မိဿရာသီ၌ ရှိရမည်ဟု မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံတိုက်သစ် သူဌေး တန်းကျောင်းဆရာတော်ဦးမာနိတသိရီအား လျှောက်ထားကာ လယ်တီဆရာတော်ကြီး၏ ဇာတာပုံတစ်ခုကိုပေးအပ်ခဲ့သည်။ ကျားမင်းကြီးဆရာခင်၏အယူအဆအရ ရေးဆွဲထားသော ဇာတာတော်ပုံမှာ အောက်ပါအတိုင်းဖြစ်သည်။

| | | |
|---|---|---|
| ၇ | ၂၉ | |
| | | ၀ |
| လ | ၃ ၈ | ၁၄၆ |

ဇာတာတော်ပုံ(၃)

ဇာတာတော်ပုံ(၄)

ဆရာဒဂုန်၏ မြန်မာ့ရှေးရာကောဇဂြိုဟ်စီးဂြိုဟ်နင်းဗေဒင်ပညာ၊ တတိယတွဲ။ (စာမျက်နှာ–၁၈၁)၌ဖော်ပြထားသော လယ်တီဆရာတော်ဘုရားကြီး၏ဇာတာတော်ပုံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| ၇ | ၂၉ | |
| | | ၀ |
| လ | ၃ ၈ | ၄ ၁၆ |

ဇာတာတော်ပုံ(၄)

*၁ ၁၂၀၈–ခုနှစ်၊ နတ်တော်လပြည့်ကျော် ၁၃–ရက်သည် ကမ္ဘာသုံးပြက္ခဒိန်အရ ၁၈၄၆–ခုနှစ်၊ ဒီဇင်ဘာလ ၁၆–ရက် ဗုဒ္ဓဟူးနေ့ဖြစ်သည်။ ရက်ကိုယူလျှင် လယ်တီဆရာတော်ကြီးသည် ဗုဒ္ဓဟူးနေ့ဖွားဖြစ်တော်မူသည်ဟုမှတ်ယူရမည်။

## ဇာတာတော်ပုံ(၅)

၁၉၈၇–ခုနှစ်၊ ဇန်နဝါရီလထုတ်၊ မြန်မာနိုင်ငံဝေဒသုတေသနအဖွဲ့၏ ဇောတိသဿဝေဒမဂ္ဂဇင်း၊ အမှတ်(၂၉)တွင် လယ်တီဆရာတော်ကြီး၏ဇာတာနှင့်စပ်၍ အောက်ပါအတိုင်းဖော်ပြထားသည်။

‘လယ်တီဆရာတော်ဘုရားကြီး၏မွေးနေ့သက္ကရာဇ်ကို မြန်မာသက္ကရာဇ် ၁၂၀၈–ခု၊ နတ်တော်လဆန်း(၁၃)ရက်၊ အင်္ဂါနေ့ညဉ့်တစ်ချက်တီး’အချိန်ဖြစ်သည်ဟု ဆုံးဖြတ်ပါသည်။ ဇာတာတော်၏ စန်းရပ်တည်မှုသည် အောက်ပါအတိုင်းရှိသည်ဟု ဆုံးဖြတ်ပါသည်။ ဇာတာတော်၏လဂ်သည် မွေးချိန်အတိုင်းမှန်ကန်သည်ဟု ဆုံးဖြတ်ပါသည်။

| | | |
|---|---|---|
| ၂ ၅ | ၉ | |
| | | ၀ |
| လ | ၃ ၈ | ၁၄၆ |

ဇာတာတော်ပုံ(၅)

## ဇာတာတော်ပုံ(၆) နှင့် (၇)

ရန်ကုန်မြို့၊ ၁၉–လမ်း၊ အမှတ်(၅၄)ရှိ Soft Guide ကွန်ပျူတာမှ ဆရာဦးအောင်သန်းညွန့်သို့ လယ်တီဆရာတော်ကြီး၏ဖွားတော်မူရက်ကို (က) သက္ကရာဇ် ၁၂၀၈–ခု၊ နတ်တော်လဆန်း ၁၃–ရက်၊ ညဉ့် ၁–ချက်တီးနှင့် (ခ) သက္ကရာဇ် ၁၂၀၈–ခု၊ နတ်တော်လပြည့်ကျော် ၁၃–ရက် ညဉ့် ၁–ချက်တီး နှစ်မျိုးပေး၍ ကွန်ပျူတာဖြင့်ဇာတာဖွဲ့ပေးပါရန် မေတ္တာရပ်ခံရာ အောက်ပါအတိုင်း ဇာတာပုံ (၆)နှင့် ဇာတာပုံ (၇)တို့ကိုရရှိပါသည်။

| | | |
|---|---|---|
| ၅ | ၂၉ | ၀ |
| | ၃ | |
| လ | ၈၃ | ၄ ၆၁ |

ဇာတာတော်ပုံ(၆)

၁၂၀၈–ခု၊ နတ်တော်လဆန်း(၁၃)ရက်၊ အင်္ဂါနေ့။

| | | |
|---|---|---|
| ၅ | ၉ | ၀ |
| | ၄ ၂၃ ၈ | |
| လ | | ၁၆ ၄ |

ဇာတာတော်ပုံ(၇)

၁၂၀၈–ခု၊ နတ်တော်လပြည့်ကျော်(၁၃)ရက်၊ ဗုဒ္ဓဟူးနေ့။

ဇာတာတော်ပုံ(၈)

ဒေါက်တာဖေညဏ် ပြုစုသော အနောက်တိုင်းနက္ခတ်ပညာ၏အခြေခံသဘောတရားများ။ (စာမျက်နှာ–၂၅၂)တွင် ဖော်ပြထားသော လယ်တီဆရာတော်ကြီးဦးဉာဏ၏ဇာတာတော်ပုံမှာ အောက်ပါအတိုင်းဖြစ်၏။

| | | |
|---|---|---|
| ၂၅ | ၉ | ၀ |
| | | |
| လ | ၈ ၃ | ၄ ၁၆ |

| ဂြိုဟ် | ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၀ | ၈ | ၉ | ယူ | နပ် | ပလူ | လ |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| ရာသီ | ၇ | ၁ | ၆ | ၈ | ၁ | ၇ | ၁၀ | ၆ | ၀ | ၁၁ | ၁၀ | | ၄ |
| အံသာ | ၁၇ | ၁ | ၁၉ | ၆ | ၂၀ | ၁၄ | ၃ | ၄ | ၄ | ၁၉ | ၃ | | ၄ |
| လိတ္တာ | ၃၃ | ၅၄ | ၃၅ | ၂ | ၁၉ | ၄ | ၂၅ | ၆ | ၆ | ၁၂ | ၄၆ | | ၃၅ |

ဇာတာတော်ပုံ(၈)

ဇာတာတော်တွင် ၁၀–တန့်၌ ဥစ်မူသော စနေဂြိုဟ်သည် ဥစ်အံသာအစစ်တွင် ရပ်တည်ကာ ကြာသပတေးဂြိုဟ်သည် ဥစ်နဝင်းစီးသည်။ လဂ်သည် မာဃနက္ခတ်နှင့်ပူးယှဉ်ထားပြီး သောကြာဂြိုဟ်သည် ဇေဋ္ဌနက္ခတ်နှင့်ပူးယှဉ်ထားသဖြင့် ကမ္ဘာကျော်ပုဂ္ဂိုလ်ကြီးဖြစ်လာရပါသည်။

## လယ်တီဆရာတော်ဘုရားကြီး၏ ဇာတာတော်ဖွဲ့ကေပိုဒ်သံပိုင်းလင်္ကာ

မင်္ဂလာဖေယျ၊ ခါကောင်းကြုံသား၊ မြန်ဘုံတည်ခင်း၊ ဒီပရင်း၏၊ ခွန်သွင်းဝင်ပါ၊ စိုင်ပြင်ရွာတွင်၊ အဋ္ဌာသုည၊ ဒွိကေဟ၊ သက္ကရာဇာ၊ တေရသာတည့်၊ လ,မှာနတ္တော်၊ တချက်ကျော်တွင်၊ ပျော်ရာတုသီ၊ တာဘူမိမှ၊ ဤသည်လူ့ရွာ၊ ဆင်းကြွလာ၍၊ ချိန်ခါထိုနေ့၊ ဆယ်လစေ့ခဲ့။ ခြသေ့်နံထူး၊ ရက်ညွှန့်ဖူးဝယ်၊ မီးရှူးသန့်စင်၊ မယ်တော်မြင်၏။ တူတွင်စန္ဒြာ၊ ကေသရာနှင့်၊ တဖြာရာဟု၊ သုံးဂြိုဟ်စုခဲ့။ နေ,ဂဠုံ၊ ဆင်,ပူး, ဆုံ၍၊ သိဟ်,ဘုံလဂ်နေ၊ ပြိသေဗိဝါ၊ မြွေ,မကာရ၊ စံပျော်ကြရှင့်။ ပန္နရသမုတ်၊ စင်နက္ခတ်တွင်၊ ၂–ပါဒ်မြင်၏။ အောင်မင်္ဂလာ၊ ချိန်ဖေယျာ၍၊ မဟာသေဋ္ဌ၊ လက္ခဏနှင့်၊ ဥက္ကဋ္ဌဖျား၊ တို့သျှင်ဘွားသည်၊ သုံးပါးလူတို့မှန်ကင်းတည်း။ ။

အယ်ဒီတာမောင်ရွှေ၏လယ်တီမဟာထေရုပ္ပတ္တိကထာ၊ ၁၂၈၅–ခုနှစ်။ (စာမျက်နှာ–၃၄)။

နောက်ဆက်တွဲ(၄)

## လယ်တီဆရာတော်ဘုရားကြီး၏ ရုပကာယရုပ်သွင်တော်လက္ခဏာကိုဖွဲ့ဆိုသောတေးထပ်

မဟာထေရ်အတုလပေမို့၊ မကုဋ္ဌကုဋ္ဌာ၊ မနုဇာဘုဇင်္ဂါ၊ ဂရုဠာဒေဝ။ ॥
မရူ[*၁]ရာဇ်သွင် မတူသည့်၊ သနက်ုဘုန်းနှင့်မမျှ။ ॥ ရုံးနှစ်ဖက်ဆင့်နှာလို၊ ရင့်
သမ္ဘာလျှံကြွ။ ॥ ဦးကင်း[*၂]တော် နဘာပမာ့ဟာမို့၊ တာရကစက္ကံ့။ ॥ မျက်နှာ[*၃]
တော် သဏ္ဍာန်ပြုရလျှင်၊ စန္ဒရခြမ်းဝက်သို့ပုံ။ ॥ ပုဏ္ဍရိကန္ဒုတက်လာကြုံသလို၊
မျက်နှာဂုဏ်ကြည်ပွင့်လို့၊ ထေရ်သခင့်တို့အရှင်၊ ဆဒ္ဒန်နှံအသွင်။ ॥ ရွှေတောင်
ထွတ် ကြွားကြွားထင်သလို၊ ငါးပါးအင်ပြည့်ပါဘိလေး။ ॥

ကဗျာ့မဥ္ဇရီကျမ်း။ (စာမျက်နှာ–၁၉၂)။

အထက်ပါတေးထပ်မူကိုပင် လယ်တီဦးလှတင်၏ လယ်တီမဟာထေရုပ္ပတ္တိကထာ (စာမျက်နှာ– ၁၆၂)၌ ဤသို့မူကွဲများဖြင့် (မဓု၊[*၁] ဥကင်၊[*၂] မျက်မှောင်[*၃]) တွေ့ရ၏။

နောက်ဆက်တွဲ(၅)

## လယ်တီဆရာတော်ဘုရားကြီး၏ မွေးချင်းများ




အထက်ပါဇယားအမှတ်(၁)ကို လယ်တီဦးလှတင်၏လယ်တီမဟာထေရုပ္ပတ္တိကထာ(စာမျက်နှာ-၇)မှရရှိပါသည်။ ၎င်းဖော်ပြပါမှုအတိုင်း- (က) လယ်တီပဏ္ဍိတဦးမောင်ကြီး၏သား ဦးတင်ဦး (လယ်တီတေဇာဝုဓေ ဗုဒ္ဓဓမ္မလောကစာစောင် (အတွဲ-၃၊ အမှတ်-၂၁။ ၂၈-၁၂-၅၇ ခုနှစ်၊ စာမျက်နှာ-၅၉) တွင်လည်းကောင်း၊ (ခ) အရှင်ဉာဏိဿရ (သီတဂူဆရာတော်) ၏ လယ်တီဆရာတော်ကြီးထေရုပ္ပတ္တိအကျဉ်းချုပ် (အင်္ဂလိပ်ဘာသာ) A SHORT BIOGRAPHY OF THE VENERABLE LEDI SAYADAW စာအုပ်၊ ၁၉၉၆-ခုနှစ်ရိုက်၊ (စာမျက်နှာ-၁)တွင်လည်းကောင်း ဖော်ပြထားကြသည်။




အထက်ပါဇယားအမှတ်(၂)ကို အောင်သိဒ္ဓိရွှေကြီးရေးသားသော လယ်တီဝါတော်စဉ် စာအုပ်(စာမျက်နှာ-၅)မှရရှိပါသည်။

မှတ်ချက်။ ။၎င်းဝါတော်စဉ်စာအုပ်ကို ဆဌလယ်တီဆရာတော်ကြီး ဦးတေဇိန္ဒ၊ စိုင်ပြင်ရွာရွှေတမာဆရာတော်ဦးနိသဘ၊ ထောင်ကျောင်းပြန်ဦးဝိစိတ္တသာရနှင့် ဓမ္မကထိက လယ်တီဦးတိုက်ဝမ်းတို့တိုက်တွန်း၍ အောင်သိဒ္ဓိရွှေကြီးရေးသားကြောင်း ဖော်ပြထား၏။

ဃယား (၃)




အထက်ပါဇယားအမှတ်(၃)ကို မဟာလယ်တီဗိမာန်အုတ်မြစ်ချနှင့် မွေးနေ့ပွဲတော်ကော်မတီမှ ပုံနှိပ်သော လယ်တီထေရုပ္ပတ္တိချုပ် (စာမျက်နှာ–၃)မှရရှိပါသည်။

ဃယား (၄)




အထက်ပါဇယားအမှတ်(၄)ကို ရွှေမုံတင်ရေးသားသော လယ်တီနေမင်းကျမ်း (စာမျက်နှာ–၆၀)မှရရှိပါသည်။

ဃယား (၅)




အထက်ပါဇယားအမှတ်(၅)ကို လယ်တီဦးလှပိုင်၏လယ်တီဂန္ထဝင်ကျော်များသမိုင်း (စာမျက်နှာ–၂၉)မှရရှိပါသည်။ လယ်တီဦးလှပိုင်၏မူအတိုင်းပင် ဒေါ်ညိုညိုစိုး၏လယ်တီထေရုပ္ပတ္တိအကျဉ်း (မဟာဝိဇ္ဇာ ဘွဲ့ယူကျမ်း)(စာ–၂)၌ဖော်ပြထားပါသည်။ လယ်တီဦးကောဝိဒ၏လက်ရေးမူ လယ်တီထေရုပ္ပတ္တိကထာကျမ်း၌ စတုတ္ထသားကို မောင်စံတက်ဟုဖော်ပြထားကြောင်း ဒေါ်ညိုညိုစိုး၏ ကျမ်းစာမှတ်ချက်တွင်ပြထား၏။

ဇယား (၆)

**ဦးထွန်းသာ + ဒေါ်ကြွေး**




အထက်ပါဇယားအမှတ်(၆)ကို မြန်မာနိုင်ငံ ဗုဒ္ဓသာသနာအဖွဲ့ ကထုတ်ဝေသော လယ်တီဒီပနီပေါင်းချုပ်၊ ပဉ္စမတွဲ၌ဖော်ပြထားသည့် လယ်တီအဋ္ဌုပ္ပတ်အကျဉ်း(စာမျက်နှာ–င)မှ ရရှိပါသည်။ ထိုအဋ္ဌုပ္ပတ်အကျဉ်းကို ဆရာဦးသာတင်(ဆရာမာဃ)ရေးသားပါသည်။ ဆရာဦးမာဃသည် ထိုအဋ္ဌုပ္ပတ်အကျဉ်းကို ပြည့်စုံနိုင်လုံစွာရေးသားနိုင်ရန်အတွက် မုံရွာမြို့ လယ်တီတိုက်သို့ သွားရောက်လေ့လာပြီးမှ ရေးသားခြင်းဖြစ်ကြောင်းကို လယ်တီဦးကောဝိဒ(ပုပ္ပါးဦးကျော်ရင်) အမှတ်တရစာအုပ် (စာမျက်နှာ–၉၈)၌ရေးသားထားပါသည်။

ဇယား (၇)

**ဦးထွန်းသာ + ဒေါ်ကြွေး**




အထက်ပါဇယားအမှတ်(၇)ကို မြန်မာပြည်စာအုပ်တိုက်ရိုက် လယ်တီဝိသောဓကမှ လယ်တီဒီပနီကျမ်းစာအုပ်များ၏နိဒါန်းပါ ဦးကြီးခင်၏လယ်တီထေရုပ္ပတ္တိအကျဉ်းချုပ်မှရရှိပါသည်။ ဦးကြီးခင်က ‘လယ်တီထေရုပ္ပတ္တိစာအုပ်များနှင့် လယ်တီဒီပနီကျမ်းဦးနိဒါန်းများတွင်ဖော်ပြထားသကဲ့သို့ လယ်တီဆရာတော်၌ မွေးချင်းငါးဦးမဟုတ်၊ မွေးချင်းခြောက်ဦးသာအမှန်ဖြစ်သည်’ဟု မှတ်ချက်တွင် ရေးသားဖော်ပြထားပါသည်။ ဦးကြီးခင်တင်ပြထားသော အထက်ပါဇယားပုံနှင့်စပ်လျဉ်း၍ မုံရွာမြို့ မဟာလယ်တီတိုက် နဝမပဓာန နာယကဆရာတော်ဘဒ္ဒန္တကေလာသက ‘အထက်ပါဇယားပုံသည်သာ မှန်သည်ဟုယူဆပါသည်။ အကြောင်းကား ထိုအခါက ငါတို့နှင့်အတူဦးကြီးခင်တို့ စိုင်ပြင်ရွာသို့သွားရောက်၍ ကျေးဖူးရှင်ဆရာတော်ဘုရားကြီး၏ တူမအရင်းဖြစ်သူ အသက်(၉၀) ကျော်ပြီဖြစ်သည့် ဒေါ်အေးမြအားမေးမြန်းရာ ဆရာတော်ဘုရားကြီး၏တူမအရင်းဖြစ်သည့် ဒေါ်အေးမြ၏ပြောစကားဖြစ်၍ အမှန်ဟုယူဆရပေမည်။ ဒေါ်အေးမြ၏ပြောစကားကို ငါတို့နားဖြင့် ဆတ်ဆတ်ကြားခဲ့ရသည်’ဟု စာရေးသူထံသို့ မှတ်ချက်ရေးသားပေးပို့ခဲ့သည်။

ဇယား (၈)

ဦးထွန်းသာ+ဒေါ်ကြိုး




အထက်ပါဇယားအမှတ်(၈)ကို ၁၉၈၆–ခုနှစ်၊ နိုဝင်ဘာလ(၈)ရက်နေ့တွင် မုံရွာမြို့၊ မြို့နယ်ပါတီယူနစ်မှဦးဆောင်၍ပြုစုသော မဟာလယ်တီတိုက်ကြီးအကြောင်း သိမှတ်ဖွယ်ရာ အကျဥ်းချုပ်၊ လက်နှိပ်စက်မူ မိတ္တူစာတမ်း(စာမျက်နှာ–၁)မှရရှိပါသည်။

ဇယား (၉)

ဦးထွန်းသာ+ဒေါ်ကြိုး




အထက်ပါဇယားအမှတ်(၉)ကို စိုင်ပြင်ရွာ ကျောင်းမတိုက်ဆရာတော် ဦးဓမ္မပါလ(သီရိပဝရ ဓမ္မာစရိယ)ထံတော်မှ (၂၆–၇–၉၈)နေ့ ပေးပို့၍ရရှိပါသည်။

## လယ်တီမဟာထေရသံခေပဥပ္ပတ္တိမဥ္ဇရီကျမ်းမှ

ရန်ကုန်မြို့၊ ကဝိမျက်မှန်ပုံနှိပ်တိုက်မှ ၁၂၉၂–ခုနှစ်တွင်ရိုက်သော လယ်တီဆရာတော်ကြီး၏ ပရမတ္ထဒီပနီကျမ်းရှေ့ပိုင်းပါ စတုတ္ထမြစ်ကွေ့ဆရာတော်ဦးပညာဝံသ၏လယ်တီမဟာထေရသံခေပ ဥပ္ပတ္တိမဥ္ဇရီတွင် 'အခါတပါး ဒေါ်ကျုံး၌ သားဦးသန္ဓေတည်နေခဲ့ရာ ကောင်းကင်သို့ပျံရသည်ဟု မကြာမကြာ အိပ်မက်မြင်၏'ဟု ဆရာတော်ကြီးသည် 'သားဦး'ဖြစ်ကြောင်းဖော်ပြထားသည်။

## မြန်မာ့စွယ်စုံကျမ်းမှ

မြန်မာ့စွယ်စုံကျမ်း၊ အတွဲ(၁၂)၊ (စာမျက်နှာ–၁၁၆)၌ လယ်တီဆရာတော်အဋ္ဌုပ္ပတ်ကို ဒဂုန်ဦးမြင့် ရေးသားထားရာတွင် 'သားငါးယောက်အနက် ဒုတိယသားဖြစ်သည်။ ဆရာတော်၏ ငယ်မည်မှာ ဦးတက်ခေါင်ဖြစ်သည်' ဟု 'ဒုတိယသား' ဖြစ်ကြောင်း ဖော်ပြထားပါသည်။

နောက်ဆက်တွဲ(၆)

## မုံရွာမြို့၊ ရွှေစည်းခုံမြတ်စွာဘုရားစေတီတော်ကြီး အရှေ့ဘက် အာရုံခံအုဋ်တိုက်နှင့် ကျောက်ဆင်းတုတော်ကြီး တည်ထားကိုးကွယ်သော ကျောက်စာ

**န မော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။ ။ဥဒယာယဿ ကေသသဒ္ဓမ္မရံသိ ဇာလိနော မဗုဇ္ဈိ သုဇနမ္ဗုဇာ သုတိခေတ္တမဟာသရေ။ ။ဝန္ဒာမိတိ မဟာသူရံ မဟာမောဟ တမောနုဒံ၊ သဥ္ဇာလိသော ဟဒယေ မယံ တမော ခန္ဓပနူဒတိ။ ။ ကေသ။** ပြိုင်ဘက်မပြူ တဆူတည်းသာဖြစ်တော်မူသော သဒ္ဓမ္မရံသိဇာလိနော၊ ဓမ္မက္ခန္ဓာ ဒေသနာပေါင်း ရှစ်သောင်း လေးထောင် များမြောင်ပြောထူ သူတော်ကောင်းတရားတည်းဟူသော ရောင်ခြည်ကွန့်ရွက်ကို ဖြန့်ကျက်ထိန်ငြီး၊ အပြီးဆောင်တော်မူထသော။ ယဿ မဟာသူရဿ၊ အကြင် သမ္ဗုဒ္ဓဘုရားတည်း ဟူသောနေမင်းကြီး၏။ ဥဒယာ၊ သမ္ဗုဒ္ဓဉာဏ်တည်းဟူသော ယုဂန်တောင်စွန်းမှ ပေါ်ထွန်းထွက်ပြူ ဥဒည်းဟူသောအကြောင်းကြောင့်၊ ဇာတိခေတ္တော မဟာသရေ စကြာဝဠာပေါင်း တိုက်တသောင်းတည်း ဟူသော၊ ပဒုမ္မာကြာအိုင်ကြီး၌၊ ဇနမ္ဗုဇာ၊ ကျွတ်ထိုက်သမူ၊ နတ်လူပြဟ္မာ သတ္တဝါတည်းဟူသော ကြာအပေါင်းတို့သည် ပဗုဇ္ဈိသု၊ သစွာလေးဆင့် ပွားပွားစင့်လျှင် ပွင့်ကြလေကုန်ပြီ။ မဟာမောဟ တမောနုဒံ၊ မောဟ အဝိဇ္ဇာ မှောင်ကြီးစွာကို၊ ဒေသနာထိန်ဝင်း ရောင်အလင်းဖြင့်၊ ပယ်ရှင်းတော် မူပေသော၊ တံ မဟာသူရံ၊ ထိုသမ္ဗုဒ္ဓ မြတ်စွာဘုရားတည်းဟူသော နေမင်းကြီးကို။ အဟံ၊ အကျွန်ုပ်သည်။ ဝန္ဒာမိ၊ ရှိခိုးပါ၏။ သော၊ ထိုမြတ်စွာဘုရားတည်းဟူသော နေမင်းကြီးသည်၊ မယံ၊ အကျွန်ုပ်၏၊ ဟဒယံ၊ စိတ်နှလုံး၌၊ သဥ္ဇာတံ၊ ဘဝများစွာ သံသရာ၌ လွန်စွာဖြစ်ပွားလျက်ရှိနေသော တမော ခန္ဓာ အဝိဇ္ဇာတုံး မှောင်လုံးမှောင်ခဲကြီးကို။ ပယဒတ်အနုဒတု၊ အမည်ကင်းအောင် ပယ်ရှင်းတော် မူပါစေသတည်း။ ။ အကျွန်ုပ်တို့၏ မုံရွာမြို့ လယ်တီတောရဆရာတော်ဘုရား ရေးသားစီရင်တော်မူသော ပရမတ္ထဒီပနီအမည်ရှိသော သဂြိုဟ်မဟာဋီကာကျမ်းဦးပဏ္ဏမဂါထာ။ ၎င်းမြို့ လယ်တီတောရဆရာတော် မဟာထေရ်မြတ်ကြီးသည် မြန်မာသက္ကရာဇ် ၁၂၄၄ ခုနှစ်တွင် မန္တလေးနေပြည်တော်မှ မုံရွာမြို့သို့ ကြွရောက်တော်မူ၍ အရပ်လေးမျက်နှာ အရပ်ရှစ်မျက်နှာတို့မှ လာလာသမျှသော ရဟန်းသင်္ဃာ စာသင်ပရိသတ်အပေါင်းတို့အား ပါဠိအဋ္ဌကထာ ဋီကာကျမ်းကြီး ကျမ်းငယ်တို့ကို ချပို့သင်ကြား၍ နေတော်မူစည်အခါ တဆဲ့နှစ်နှစ်တို့ပတ်လုံး ဆွမ်းခံဝတ်

တမျက် ဝတ် ရေဝတ်တို့ကို ဖြည့်ကျင့်တော်မူသဖြင့် ဤရွှေစည်းခုံဘုရားကြီးစေတီရင်ပြင်တော်၌ နေ့စည်အားထုတ် သုတ်သင်ရှင်းလင်းတော်မူသည်။ အဘိဓမ္မတ္ထသင်္ဂဟအဖွင့် ပရမတ္ထဒီပနီ ဋီကာပါဌ်-၁၊ ဝုတ္တိမောဂလန်အဖွင့် နိရုတ္တိဒီပနီပါဌ်-၂၊ ရဟန်းပဥ္စင်းဖြစ်မြောက်ရန် အင်္ဂါပါးကို ပဥ္စင်္ဂဒီပနီပါဌ်-၃၊ ရဟန်းပဥ္စင်း ထပ်ခံခြင်းကိုပြဆိုသော ဒဠှီကမ္မဒီပနီပါဌ်-၄၊ သဒ္ဒသံခိပ်အကျဉ်း-၅၊ အကျယ်-၆၊ သင်္ဂြိုဟ်သံခိပ် အကျဉ်း-၇၊ ၎င်းသံခိပ်အကျယ်-၈၊ ဝိနယသံခိပ်အကျဉ်း-၉၊ ၎င်းသံခိပ်အကျယ်-၁၀၊ နိဗ္ဗာန ဒီပနီ အကျဉ်း-၁၁၊ နိဗ္ဗာနဒီပနီအကျယ်-၁၂၊ ကမ္မ(ဋ္ဌာန)ဒီပနီ-၁၃၊ ဘာဝနာဒီပနီ-၁၄၊ အနတ္တဒီပနီ- ၁၅၊ လက္ခဏာဒီပနီ-၁၆၊ ဝိဇ္ဇာ၊ မဂ္ဂဒီပနီ-၁၇၊ ရူပဒီပနီ-၁၈၊ ( ) ဒီပနီ-၁၉၊ ပါရမီဒီပနီ-၂၀၊ ဗောဓိပက္ခိယဒီပနီ-၂၁၊ ဥတ္တမပုရိသဒီပနီ-၂၂၊ မဂ္ဂင်ဒီပနီ-၂၃၊ ပဋိစ္စသမုပ္ပါဒ်ဒီပနီအကျဉ်း-၂၄၊ အကျယ်-၂၅၊ ဒါနာဒိဒီပနီ-၂၆၊ သောမနဿုပေက္ခာဒီပနီ-၂၇၊ မဟာသယာနဒီပနီ-၂၈၊ သစ္စတ္တဒီပနီ- ၂၉၊ စတုသစ္စဒီပနီ-၃၀၊ အလင်္ကာလင်္ကာခွဲခန်းဓမ္မဒီပနီ-၃၁၊ မြို့ရွာတို့၌ ကပ်ရောဂါကင်းကင်းလတ်ရန် ရောဂန္တရဒီပနီ အကျဉ်း-၃၂၊ ၎င်းဒီပနီအကျယ်-၃၃၊ သူငယ်တို့သင်ကြားရန် သင်ပုန်းကြီးသံခိပ်ကျမ်း-၃၄၊ သုကုမ္မာရမဂ္ဂဒီပနီ-၃၅၊ ဘာသာတပါးနှင့်စပ်လျဉ်းသော သမ္မာဒိဋ္ဌိဒီပနီပါဌ်-၃၆၊ နိယာမဒီပနီကျမ်း-၃၇၊ ခရစ်ယာန်ပုစ္ဆာအဖြေကျမ်း-၃၈၊ သာသနဒါယဇ္ဇဒီပနီ-၃၉၊ ဂေါဏသူရာဒီပနီ-၄၀၊ ဓါတ်ကမ္မဋ္ဌာန်းကျမ်း-၄၁၊ ထိုမှတပါး ဝိသုဂါမဝိနိစ္ဆယ-၄၂၊ အာဇီဝဋ္ဌမကဝိနိစ္ဆယ-၄၃၊ ဝိကာလဘောဇန ဝိနိစ္ဆယ-၄၄၊ သင်္ခါရဝိနိစ္ဆယ-၄၅၊ အစရှိသော ဝိနိစ္ဆယကျမ်းအမျိုးမျိုး၊ ဤမျှသော ပါဠိဘာသာ မြန်မာဘာသာကျမ်းတို့ကိုလည်း ရေးသားစီရင်တော်မူသည်။ မန္တလေးမြို့တော်မှစ၍ မြန်မာနိုင်ငံ အောက်ပိုင်း သုနာပရန္တရတိုင်း၊ တမ္ဗဒီပတိုင်း၊ တနင်္သာရီတိုင်း၊ ဟံသာဝတီတိုင်း၊ ရာမဝတီတိုင်း၊ ရက္ခပူရတိုင်း၊ တဝှမ်းလုံးတို့၌ ခြောက်နှစ်တိုင်တိုင် လှည့်လည်တော်မူပြီးလျှင် အမြို့မြို့အရွာရွာ တို့၌ ကြီးကျယ်စွာသော တရားပွဲသဘင်တို့ကို ဆင်ယင်ကျင်းပတော်မူ၍ ရှင်လူအများ သတ္တဝါ အပေါင်းတို့အား တရားဓမ္မဩဝါဒအမြိုက်ဆေး တိုက်ကျွေးတော်မူသည်။ မြန်မာသက္ကရာဇ် ၁၂၇၂ ခု သက်တော် ၆၄ နှစ် ဝါတော် ၄၅ ဝါတွင် မြန်မာနိုင်ငံတော်အထက်ပိုင်းရှိ မြို့ရွာ နယ်ပယ်တို့ကို လှည့်လည်တော်မူခြင်းငှာ မုံရွာမြို့ လယ်တီတောကျောင်းတိုက်အတွင်း မနော်ရမန် စကြံန်ကျောင်းကြီး၌ သီတင်းဝါ ကပ်ဆိုတော်မူသည်။ တဆယ့်နှစ်နှစ်တို့ပတ်လုံး ဆရာတော်ဘုရား နေ့စည်တမျက်တလင်း ရှင်းလင်းသုတ်သင်၍ ကြည်လင်သန့်ရှင်းသောမြေအဖို့ကို မြင်ရသဖြင့် ဤနေရာဌာနတွင် ထာဝရကုသိုလ်ပြုလုပ်လိုသော စိတ်သဘောဆန္ဒသည် သက်လတ်ရကား မုံရွာမြို့ပေါ်တွင် ဂုဏ်သရေရှိဘုရားလူကြီးမင်းများနှင့်တကွ ဂိုဏ်းအုပ်ဂိုဏ်းထောက် သင်္ဃာတော်များ ပင့်ဘိတ်၍ မြန်မာသက္ကရာဇ် ၁၂၇၂ ဝါခေါင်လဆွတ်ရစ်ရက်နေ့တွင် ဤရွှေစည်းခုံဘုရား စေတီအပြင်၌ သံဃာအစည်းအဝေးပြုလုပ်ပြီးလျှင် ဤနေရာဌာနမှာ အာရုံခံအဋ္ဌတိုက်ဆောက်လုပ်ပါမည့် အကြောင်းခြင်းခွင့်တောင်းလျှောက်ထားရာ သဘောဆန္ဒတူညီကြသဖြင့် အခွင့်ရရှိသည်ဖြစ်ပါ၍

မုံရွာလေးကူးမြို့ ဆန်တန်းရပ်နေ ဘုရားဒကာဖြစ်သူ ကုန်သည်ကြီး မောင်စံလှ၊ ဘုရားအမ မမင်းပေါ်၊ သားကြီးမောင်ဘိုးလင့်၊ သားငယ်မောင်မျိုးဆင့်၊ သမီးကြီး မရီသင့်၊ သမီးငယ် မစိန်ခင် ကြည်လင်ဆပွား ခြေခံသားတို့သည် ဘုရားမြတ်စွာသာသနာ၌ သန့်စင်ဖြူ စိတ်ထား သဘောတူကြသဖြင့် ငွေဒင်္ဂါးပြားရေ (    )မျှ လကာ့ ကံကျွေးပေးစွန့်ကြကုန်၍ တလ်မဏ် စီခြယ်ပြီး ပလ္လင်တံကဲတော်နှင့် သက်တော်ထင်ရှား သမ္မုညုမြတ်စွာဘုရား၏ ကိုယ်တော်စား ကိုယ်တော်ပွား ဉာဏ်တော်လေးတောင်စီရှိ ကျောက်သားဖြူစင် ရုပ်ရှင်တော်မြတ်ကြီးနှင့်တကွ ဤ ရွှေစည်းခုံဘုရား အာရုံခံအုဋ္ဌတိုက်ကြီးကို ၁၂၇၂ ခု တော်သလင်းလဆန်း ၅ ရက်နေ့နံနက် ၈ နာရီ အချိန်စတင်ဆောက်လုပ်လှူဒါန်းကြပါကုန်သည်။ ဤကောင်းမှု ဤကုသိုလ်ကြီးသည် အကျွန်ုပ်တို့အား နောင်ဘုရား လက်ထက်တော် စိတ္တသူကြွယ်ဆုကိုပေးစေသော်၊ ဣဒံမေပုညံ နိဗ္ဗာန ပစ္စယောဟောတု။ နတ်လူသာခုခေါ်စေသော်။

